ကောက်ပင်မြိုင် စာအုပ်တိုက်

# မြန်မာနိုင်ငံ ရဟန္တာ နှင့် ရဟန်းထူးများ

(ပထမတွဲ)

ဝိဇ္ဇာအဝေ့ဝေ့ဂုဏ်ထူး၊ မဟာဝိဇ္ဇာဂုဏ်ထူးတွဲရ
ဦးလှမြင့်အမည်ခံ ကဗျာဆရာ၊ စာရေးဆရာ၊ တာပေပသုတေသီ၊
ယခင် ရန်ကုန်တက္ကသိုလ် မြန်မာစာဌာန၊ မြန်မာစာဆရာ

မောင်ပန်းမွှေး

ပြုစုသည်

(ဒုတိယအကြိမ်)

# မြန်မာနိုင်ငံ
# ရဟန္တာ နှင့် ရဟန်းထူးများ
## (ပထမတွဲ)

ဝိဇ္ဇာအထွေထွေဂုဏ်ထူး၊ မဟာဝိဇ္ဇာဂုဏ်ထူးတွဲရ
ဦးလှမြင့်အမည်ခံ ကဗျာဆရာ၊ စာရေးဆရာ၊ စာပေသုတေသီ၊
ယခင် ရန်ကုန်တက္ကသိုလ် မြန်မာစာဌာန၊ မြန်မာစာဆရာ

မောင်ပန်းမွှေး

ပြုစုသည်

(ဒုတိယအကြိမ်)

■ ဒေလရဟန္တာ ဦးလိပ်(ဦးပညာ) ■ ကင်းတောရ ဆရာတော် အရှင်ဓေမာ ■ သီးလုံးဆရာတော် ■ လွန့်ခေါင်ဆရာတော် ■ အုတ်ဖို ဆရာတော်ဘုရားကြီး ■ ရဟန္တာ ဦးသာရွှန်း ■ ပထမရွှေကျင်ဆရာတော်ဘုရားကြီး ■ ပိန္နဲကွင်း ပထမဆရာတော် ဦးကာလျာဏ၊ ဒုတိယဆရာတော် ဦးဝိယမ၊ တတိယဆရာတော် ဦးစန္ဒ ■ ရေမကြီး ဂူမြူတောရ ဆရာတော်ဘုရားကြီး ■ တန်လင်း သစ်ဆိမ့်ကြီး ဆရာတော် အရှင်ဇေန၊ ညီတော် အရှင် ဝိသုဒ္ဓါစာရ ■ ရဟန္တာ ဘုန်းတော်ကြီး ဦးသီလ ■ ပုသိမ် မိဂဒါဝုန် ဆရာတော် ■ အငိုင်း မင်းကျောင်းဆရာတော် ■ စမ်းကျ (စကြ) ဆရာတော် ■ ထိမ်တော ရွာမ ဆရာတော်ဘုရားကြီး ■ မယဒေဝ မန်လည်ဆရာတော် ■ ပခုက္ကူ ဆရာတော် ဦးကြည် ■ လယ်တီ ဆရာတော်ဘုရားကြီး ■ ပယင်းတွင်း ဆရာတော်ကြီး ဦးနရိန္ဒ ■ စစ်ကိုင်း ပါးချက် မင်းကျောင်း ဆရာတော်ကြီး ■ မုဒုံ ဂျုံဂျုံကျတောရ ဆရာတော်ဘုရားကြီး ■ စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံ ဆရာတော်ဘုရားကြီး ■ ရဟန္တာကုန်း ဆရာတော်ဘုရားကြီး ■ ကြောင်ပန်းတောရ ဆရာတော်ဘုရားကြီး ■ အင်ကြင်းမြောင် ဆရာတော်ဘုရားကြီး ■ ညောင်လွန့်တောရ ဆရာတော် ■ မယ်ဇက်ဆရာတော်ဘုရားကြီး ■ မုလမင်းကွန်းဆရာတော် အရှင် နာရဒ (သထုံ တောင်နဲဆရာတော်) ■ သေဘျှတောင် ဆရာတော် ဦးတိလောက ■ မိုးညှင်း သမ္ဗုဒ္ဓေ ကိုယ်တော်မြတ်ကြီး ■ အင်းလေး ရွှေဥဒေါင်းတောင် ဆရာတော်ဘုရားကြီး ■ ညောင်လန်းကုန်း ဆရာတော်ဘုရားကြီး ■ ပထမအင်းမကြီး သိမ်တောင်တောရ ဆရာတော် ဦးဇောတိက ■ မြင်းခြံ စွန်းလွန်း ဆရာတော်ဘုရားကြီး ■ စစ်ကိုင်းတောင် မနောမယကျောင်းဆရာတော်ဘုရားကြီး ■ ရဟန္တာ ဦးမဏိသာရ ■ ကန္နီ ရွှေသိမ်တော်တောရ ဆရာတော် ဦးသောဘိတ ■ လက်ပံအိုင် ရဟန္တာဆရာတော် ဦးစန္ဒ ■ ဒုတိယ သိမ်တောင် ဆည်ကြီးတောရ ဆရာတော် ဦးဇေန ■ ဝေပုလ္လတောင် ဆရာတော်ဘုရားကြီး ■ ပြည်မြို့ နိဗ္ဗိန္ဒ ဆရာတော် ■ မုံရွာမြို့ ရေတံခွန်ကျောင်း မဟာရင်ဂိုဏ်း ဆဋ္ဌဂိုဏ်းချုပ်ဆရာတော် ဇောတိပါလ မဟာထေရ် ■ တော်ကူးဆရာတော်ဘုရားကြီး ■ ဗန်းမော် အရညဝါသီ ဇေ့ရသုကို ■ သပိတ်အိုင်တောရဆရာတော် ဦးတိဿ ■ မဲမြို့ ဇပ်ပြွန်းဆရာတော် ဦးသာဓိန ■ မော်တီ ပထမ နဲ့သမိန် ဆရာတော် ဦးကောသလ ■ ဒုတိယ ခန္တီ ဆရာတော်ဘုရားကြီး အရှင် သုဇန ■ စရေးအရှေ့ရွာ ကန်တွင်းကျောင်း ဆရာတော်ဘုရားကြီး ■ ဝေဘူ ဆရာတော်ဘုရားကြီး ■ တောင်ပုလုတောရ ကမ္မဋ္ဌာန်း ဆရာတော်ဘုရားကြီး ■ မင်းဘူး နန်းတော်ကုန်းရွာဆရာတော် ဦးနန္ဒိယ ■ မြန်အောင် လဟာပေါက်၊ နောကုန်းရွာ ဆရာတော် ဦးသီရိန္ဒ ■ ပြည်မြို့ပထမ နန္ဒဝန် ဆရာတော် ဘုရားကြီး ■ မိုးကုတ် ဆရာတော်ဘုရားကြီး ဦးဝိမလ ■ ရွှေဘို ကျောက်မြစ်ဆရာတော် အရှင် နရိန္ဒာဘိ ■ ပြည် မုဇ္ဈာ ဆရာတော်ကြီး ဦး ဉာဏစာရ ■ ဟသာတမြို့ ထိပ်သာရွာ ရုံးကျောင်းဆရာတော် ဦးနန္ဒိယ ■ မြန်အောင် နန္ဒဝန်ကျောင်း ဆရာတော် ဦးသာသန ■ သံတွဲ ဓလွန်(မဒေး) ဆရာတော် ဦးသုဇာတ ■ မွန်မြို့ဂူမြို့ရွာ ဆရာတော်ဘုရားကြီး ဦးသုစိတ္တ ■ မဟာစည် ဆရာတော်ဘုရားကြီး ဦးသောဘန ■ သက်တော် ၁၀၀ ဆရာတော် ဦးအာစာရ ■ လှိုင်တော် ရတနာသိဒ္ဓိ ဂူကျောင်းဆရာတော် အရှင် ပညာသာမိ ■ ပုသိမ် သံပတ် ဆရာတော်ကြီး ဦးအာစိဏ္ဏ ■ အုတ်ဖို သရက်ပင်ကန်ရွာ ရွှေဘုန်းပွင့်စံကျောင်းဆရာတော် ဦးသီဟ ■ ဂျွန်တောင် ကံလုံ့ဆရာတော်ဘုရားကြီး ဦးတေဇနိယ ■ သီပေါ ကြီးပွားသိမ်တောင် ဆရာတော်ဘုရား ဦးစန္ဒာဝရ ■ တတိယ မိုးကုတ်ဆရာတော်ဘုရား ■ နေပြည်တော် ကုက္ကိုကြီး၊ နဲကြီးရွာလယ်ကျောင်းဆရာတော် ဦးဓာရိဏ္ဏာဘိဝံသ ■ တောင်တန်းသာသနာပြု ဆရာတော်ဘုရားကြီး ဦးဥတ္တမသာရ ■ ရေတတိုင်း ဓေသကြီး လေးမျက်နှာမြို့ဆရာတော် ဦးဥတ္တမ ■ သာမညတောင် ဆရာတော်ဘုရားကြီး ဦးဝိနယ ■ နမ္မားဆရာတော် ဦးဉာဏ ■ ကွမ်းတောဆရာတော် အရှင်ပညာသီရိ ■ ပင်ကဏ္ဍုံ ဆရာတော် ဦးပဏ္ဍိဝံသ ■ မြေငုရွာ သရက်တော တောရကျောင်း မြေငုဆရာတော် ဦးကုသလ ■ ရန်ကုန် သယံနဲကျွန်း မေဓာဝီ ဆရာတော်ဘုရားကြီး ■ တောင်သာ ဆည်ကုန်းရွာ ဆရာတော်ကြီး ဦးကောဏ္ဍည ■ ညောင်ပင်အိုင်ဆရာတော် ဦးနန္ဒာဘိဝံသ ■ အမြင့် ရပ် သစ်ကျောင်းဆရာတော် အရှင် နန္ဒာသီရိ ■ တစ်ဘဝ သာသနာ ကျမ်းပြု ဦးယောသိတ ■ မိုးယှဉ်ကြီးတောရ ဆရာတော် ဦးကုန္ဒဝံသ

# မြန်မာနိုင်ငံ

# ရဟန္တာ နှင့် ရဟန်းထူးများ

(ပထမတွဲ)

မောင်ပန်းမွှေး
ပြုစုသည်

D e s i g n : Z a r n i ( G l o r y )

## ဒို့တာဝန်အရေးသုံးပါး

☐ ပြည်ထောင်စုမပြိုကွဲရေး — ဒို့အရေး
☐ တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေး — ဒို့အရေး
☐ အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး — ဒို့အရေး

## ပြည်သူ့သဘောထား

☐ ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
☐ နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
☐ နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက် နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
☐ ပြည်တွင်းပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

## နိုင်ငံရေးဦးတည်ချက် (၄)ရပ်

☐ နိုင်ငံတော်တည်ငြိမ်ရေး ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး
☐ အမျိုးသား ပြန်လည်စည်းလုံးညီညွတ်ရေး
☐ ခိုင်မာသည့် ဖွဲ့စည်းပုံ အခြေခံဥပဒေသစ် ဖြစ်ပေါ်လာရေး
☐ ဖြစ်ပေါ်လာသည့် ဖွဲ့စည်းပုံ အခြေခံဥပဒေသစ်နှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်တစ်ရပ် တည်ဆောက်ရေး

## စီးပွားရေးဦးတည်ချက် (၄)ရပ်

☐ စိုက်ပျိုးရေးကိုအခြေခံ၍ အခြားစီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
☐ ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာ ဖြစ်ပေါ်လာရေး
☐ ပြည်တွင်း ပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
☐ နိုင်ငံတော်စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့်တိုင်းရင်းသားပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး

## လူမှုရေးဦးတည်ချက် (၄)ရပ်

☐ တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တ မြင့်မားရေး
☐ အမျိုးဂုဏ်ဇာတိဂုဏ်မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ အမျိုးသားရေးလက္ခဏာများမပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး
☐ မျိုးချစ်စိတ်ဓာတ် ရှင်သန်ထက်မြက်ရေး
☐ တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး

ကုန်းဘောင်ခေတ်၊ ကိုလိုနီခေတ်၊ လွတ်လပ်ရေးခေတ်၊

လမ်းစဉ်ပါတီခေတ်၊ ယနေ့ မျက်မှောက်ခေတ်၊

ခေတ် ၅ ခေတ်၏ ပြည်မြန်မာ သာသနာ မဟာရုပ်ပုံလွှာ

# မြန်မာနိုင်ငံ ရဟန္တာနှင့် ရဟန်းထူးများ

## (ပထမတွဲ)

## မောင်ပန်းမွေး

ဝိဇ္ဇာအထွေထွေဂုဏ်ထူး၊ မဟာဝိဇ္ဇာ(အမှတ်စဉ်အလိုက် ပထမ) ဂုဏ်ထူးဘွဲ့ရ၊

ကဗျာဆရာ၊ စာရေးဆရာ၊ စာပေသုတေသီ၊

ယခင် ရန်ကုန်တက္ကသိုလ်၊ ပညာရေးတက္ကသိုလ်၊ ပုသိမ်ကောလိပ်၊ စစ်တွေကောလိပ်၊ မြန်မာစာဌာန၊ မြန်မာစာဆရာ၊

ကရဝိက်နန်းတော် အထွေထွေမန်နေဂျာ (ဧကေမ္ဘာကုမ္ပဏီလီမိတက်)၊

အချစ်ဂျာနယ်၊ ဝိဇ္ဇာမဂ္ဂဇင်း၊ သာသနာ့အလင်းဂျာနယ်(အယ်ဒီတာချုပ်)၊

ဌာနကြီးမှူး၊ သတင်းနှင့်ပြန်ကြားရေး စာပေသုတေသနဌာန၊

မြန်မာနိုင်ငံ နယ်စပ်နှင့်တောင်တန်းဒေသ ထေရဝါဒဗုဒ္ဓဘာသာ သာသနာနုဂ္ဂဟအသင်းကြီး၊

ဗမ္ဗူသီရိပိမာန်တော်

# ပုံနှိပ်မှတ်တမ်း


| | | |
|---|---|---|
| စာမူခွင့်ပြုချက်အမှတ် | - | ၆၀၀၆၀၆၁၀၁၀ |
| မျက်နှာဖုံးခွင့်ပြုချက်အမှတ် | - | ၆၀၀၆၇၇၁၂၁၀ |
| မျက်နှာဖုံးဒီဇိုင်း | - | ကိုဇာနည် (Glory) |
| ထုတ်ဝေသူ | - | ဦးလှိုင်ဝင်းမိုး (မြဲ - ၀၃၉၀၀) |
| | | အမှတ်-၁၅၉၊ ၃၉-လမ်း၊ ကျောက်တံတားမြို့နယ်။ |
| မျက်နှာဖုံးနှင့် | - | ဦးဝင်းကျော်ထွန်း (မုံရွေးပုံနှိပ်တိုက်) |
| အတွင်းပုံနှိပ်သူ | | အမှတ်-၁၄၀၊ ၄၅-လမ်း၊ ဗိုလ်တထောင်မြို့နယ်။ |
| အတွင်းပလင် | - | ကိုဦးနှင့်ညီများ |
| ထုတ်ဝေခြင်း | - | ဒုတိယအကြိမ်၊ ၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာလ |
| အုပ်ရေ | - | ၅၀၀ |
| တန်ဖိုး | - | ၁၂၀၀၀ ကျပ် |

၂၉၄. ၃

မောင်ပန်းမွေး

မြန်မာနိုင်ငံရဟန္တာနှင့်ရဟန်းထူးများ(ပထမတွဲ)/မောင်ပန်းမွေး-ရန်ကုန်၊ ၂၀၁၀။

တော်ဝင်မြို့မစာပေ၊ ဒုတိယအကြိမ်၊ ၂၀၁၀။

၈၃၂ - စာ၊ ၄၂. ၆ စင်တီမီတာ × ၂၇. ၉ စင်တီမီတာ

(၁) မြန်မာနိုင်ငံရဟန္တာနှင့်ရဟန်းထူးများ (ပထမတွဲ)

# မာတိကာ

## အမှာစာ

ဤကျမ်းပြုသူသည် ၁၉၇၈ ခုနှစ်တွင် "မိုးညှင်းသမ္ဗုဒ္ဓေဆရာတော်၏ မဟာရုပ်ပုံလွှာ" ဆောင်းပါးကိုလည်းကောင်း၊ "အုံ့ဖွယ်ထူးခြား အုဂ်ဖိုရ်ဆရာတော်ဘုရား"ဟူသော ဆောင်းပါးကို လည်းကောင်း ရေးခဲ့ဖူးပါသည်။ နှစ်သုံးဆယ်ကျော်ခဲ့ပါပြီ။

ဤသို့ ရေးခဲ့သည်မှာ ဓမ္မာစရိယ ဦးဒွေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ စာအုပ်ထူထူကြီးကို ဖတ်ရ၍ ကြည်ညိုသောကြောင့်ဖြစ်ပါသည်။ ဆရာကြီး ဦးဒွေးလှိုင်သည် ၁၉၇၄ ခုနှစ်မတ်လတွင် ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ ပထမတွဲစာအုပ်ကို ရိုက်နှိပ်ခဲ့လေသည်။ ပထမအကြိမ် ထုတ်လုပ်ခြင်းဖြစ်သည်။ ၁၆ ချီးဆိုဒ်ဖြစ်၏။ စာမျက်နှာ ၂၆၀ တိတိပါရှိ၏။ ပုံနှိပ်သူမှာ အထောက်တော်လှအောင်၊ သတင်းဂျာနယ် ပုံနှိပ်တိုက်ဖြစ်၏။ ထိုစဉ်က သတင်းဂျာနယ်သည် ၃၉ လမ်း အမှတ် ၈၉ တွင် တည်ရှိ၏။ ထိုစဉ်က ထိုစာအုပ်မှာ တန်ဖိုး ၅ ကျပ်မျှသာဖြစ်၏။

ထိုစဉ်ကတည်းက ထိုရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများစာအုပ်သည် လူကြိုက်များလှ၏။ ဖတ်၍ ကြည်ညို သူများလည်းများလှ၏။ ၎င်းနောက် ၁၉၇၈ ခုနှစ်တွင် ဤကျမ်းပြုသူသည် "အံ့ဖွယ်ထူးခြား မိုးညှင်း ဆရာတော်ဘုရား မဟာရုပ်ပုံလွှာ"ကို ရေးသားပြုစုခဲ့ခြင်းဖြစ်ပါသည်ဟု မှတ်မိပါသည်။ ထိုစဉ်က ဓမ္မ ကြေးမုံဟူသော စာစောင်ထွက်၏။ ရှေ့ဆုံးစာမျက်နှာတွင် မန္တလေးတက္ကသိုလ်မှ ဆရာကြီး ဦးဆန်းထွန်းက "နမော ဗုဒ္ဓါယ သိဒ္ဓံ" ဟူသော ဆောင်းပါးကို ရေး၏။ ကျောက်စာအကိုး အကားများစွာပါ၏။ စာမျက်နှာ ၁ မှာ မျက်နှာဖုံး ဆောင်းပါးဖြစ်၏။ ဤစာပြုသူ၏ ဆောင်းပါးမှာ စာမျက်နှာ ၂ တွင် ပါပါသည်။

၎င်းနောက် "ယုံချင်ယုံ မယုံချင်နေ ယနေ့တိုင် ရုပ်ကလာပ်တော် တည်ရှိသေးသော မန်လည်ဆရာတော်ဘုရား" ဟူသော ဆောင်းပါးကို ဤစာပြုသူ ရေးခဲ့ပြန်သည်။ တက္ကသိုလ်မှ ဝိဇ္ဇာတွဲ့ရ ကိုစိန်သန်း တည်းဖြတ်၍ အေဝမ်းရုပ်ရှင်မှ တာဝန်ခံထုတ်ဝေခဲ့သော ဒဂုန်မဂ္ဂဇင်းတွင် ပါရှိခဲ့ပါသည်။

၎င်းနောက် ဤစာပြုသူသည် ရဟန္တာနှင့် ရဟန်းထူးများကို စိတ်ဝင်စားစွာဖြင့် ရှာဖွေ မှတ်သားခဲ့ပါသည်။ ထို့ကြောင့် စတင် ရေးသားခဲ့သော ပထမဆုံး အပုဒ်မှစ၍ ယနေ့အထိ ရှာဖွေ စုဆောင်း ဖတ်ခဲ့မှတ်ခဲ့သည်မှာ နှစ်ပေါင်း ၂၀ ရှိခဲ့ပါပြီဟု ဆန်းစစ်မိပါသည်။

၁၉၉၃ ခုနှစ်တွင် ဆရာကြီး ဦးဒွေးလှိုင်သည် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများစာအုပ်ထူထူကြီးကို နဝမအကြိမ် ထုတ်ဝေနိုင်ခဲ့ပါသည်။ ဗုဒ္ဓအသံ စာပေမှ ထုတ်ဝေခြင်းဖြစ်၏။ တစ်ပြည်လုံးက ဖတ်ကြ၏။ ဖတ်သူတိုင်း ကြည်ညိုကြ၏။ အားကျကြ၏။ ကုသိုလ်အများကြီးရ၏ဟု မှတ်ခဲ့မိပါသည်။

၎င်းနောက် ဆရာကြီး ဦးဒွေးလှိုင်သည် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ရေးသားစဉ်က သက်တော်ထင်ရှား ရှိ၍ ကြွင်းကျန်ခဲ့သော ပုဂ္ဂိုလ်ထူးများအကြောင်းကိုလည်းကောင်း၊ ထိုစဉ်က မသိ၍ ကြွင်းကျန်ခဲ့သော ပုဂ္ဂိုလ်ထူးများအကြောင်းကိုလည်းကောင်း ဆက်လက်ရေးသားလျက်ရှိသည်ဟုသိရပါသည်။

ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ စတုတ္ထပိုင်း မျက်မှောက်ခေတ်နှင့် ဖြည့်စွက်တွဲ အဖြစ် ဒုတိယအုပ် (ဆိုက်ကြီး) ဆက်လက်ထွက်ပေါ်လာပါဦးမည်။

ဝေဘူ၊ မဟာစည်၊ တောင်ပုလု၊ ခန္တီး၊ ရွှေဥဒေါင်းတောင်၊ စစ်ကိုင်း စာရေး၊ စလင်းကန်လယ်၊ မြိုင်ဇီးတော၊ ဗန်းမော်ဝေ့သုက္ခ၊ ဟန်လင်းကြီး၊ အင်းဝ တံတားဦး၊ ကျောက်ပန်းတောင်းမြောက်ဂူ၊ ပုဂံကျစ်ဂူဆရာတော်၊ တော်ကူးဆရာတော် စသော

မျက်မှောက်ခေတ် ရဟန္တာပုဂ္ဂိုလ်ထူးကြီးများအကြောင်း ကြည်ညိုဖွယ် အားကျဖွယ် ဖတ်ရှုကြရပါမည်။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ ၁၉၉၃ ခုနှစ်၊ နဝမအကြိမ် ပုံနှိပ်ခြင်း၊ စာ ၆၅၈ ကို ကြည့်ပါ။ )

ဟူ၍ ဆရာကြီး ဦးဌေးလှိုင်က ရေးသားခဲ့ပါသည်။ သို့သော်လည်း စုံစမ်းသိရှိရသမျှမှာ ထိုစာအုပ်ကြီးသည် ထွက်လာသည်ကို မတွေ့ရှိရပါ။

ထို့ကြောင့် ဆရာကြီးဦးဌေးလှိုင်၏ စာဖတ်ပရိသတ်ဖြစ်သော ကျွန်ုပ်တို့တစ်စုမှာ တမျှော်လင့်လင့် ဖြစ်ခဲ့ရပါသည်။ နောင်သောအခါ ဆရာကြီး ဦးဌေးလှိုင်သာ ကွယ်လွန်သွားပါကရော၊ ထိုစာအုပ်ထူထူကြီးကား ထွက်လာသည်ကို မတွေ့ရတော့ပါ။ ကျွန်ုပ်တို့ကား မောရုံသာဖြစ်ပါတော့သည်။

သို့နှင့် ကျွန်ုပ်တို့လည်း ဆရာကြီး၏ခြေရာကို နင်းနိုင်ဖို့ဝေးစွ၊ အနားပင် မသီရဲခဲ့ပါ။ မသီဝံ့ပါ။ ဆရာကြီးကား လောကီ လောကုတ် စွယ်စုံပုဂ္ဂိုလ်ကြီးဖြစ်ပါ၏။ ဤသို့သော လောကဓမ္မစွယ်စုံပုဂ္ဂိုလ်မျိုး စာပေလောကတွင် ရှားလှပါသည်။

သို့သော်လည်း ကျွန်ုပ်တို့မှာ ဆရာကြီး၏စာအုပ်ကိုဖတ်၍ ကြည်ညိုလှသဖြင့် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများအကြောင်းကိုလည်းကောင်း၊ ရဟန္တာနှင့်ရဟန်းထူးများအကြောင်းကိုလည်းကောင်း လက်လှမ်းမီသမျှ စာတွေ့ ငါတွေ့ လေ့လာခဲ့သည်မှာ နှစ်ပေါင်း ၂၀ ကြာခဲ့ပါသည်။ ဆရာကြီး ဓမ္မာစရိယ ဦးဌေးလှိုင်၏စာကိုဖတ်ရင်း ဆရာကြီးအား ဂုဏ်ပြုကျေးဇူးဆပ်သောအားဖြင့် ဆရာကြီး၏ လမ်းညွှန်ချက်အတိုင်း ဤစာပြုသူသည် အောက်ပါဆရာတော်ကြီးများအကြောင်းကို ပြုစုခဲ့ပါသည်။

၁။ ဝေဘူဆရာတော်ဘုရားကြီးအကြောင်း
၂။ မဟာစည်ဆရာတော်ဘုရားကြီးအကြောင်း
၃။ တောင်ပုလုဆရာတော်ဘုရားကြီးအကြောင်း
၄။ ခန္တီးဆရာတော်ဘုရားကြီးအကြောင်း
၅။ ရွှေဥဒေါင်းတောင်ဆရာတော်ဘုရားကြီးအကြောင်း
၆။ စစ်ကိုင်း စရေးဆရာတော်ဘုရားကြီးအကြောင်း
၇။ စလင်းကန်လယ်ဆရာတော်ဘုရားကြီးအကြောင်း
၈။ မြိုင်ဇီးတောဆရာတော်ဘုရားကြီးအကြောင်း
၉။ ဗန်းမောက် ဇေ့သုက္ခီဆရာတော်ဘုရားကြီးအကြောင်း
၁၀။ ဟန်လင်းကြီးဆရာတော်ဘုရားကြီးအကြောင်း
၁၁။ ကျောက်ပန်းတောင်းမြောက်ဂူ ဆရာတော်ဘုရားကြီးအကြောင်း
၁၂။ ပုဂံကျွပ်ဂူဆရာတော်ဘုရားကြီးအကြောင်း
၁၃။ တော်ကူးဆရာတော်ဘုရားကြီးအကြောင်း

ဤသို့ဖြင့်မျက်မှောက်ခေတ် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးကြီးများအကြောင်းကို လေ့လာရှာဖွေမှတ်သားခဲ့ရပါသည်။ အထက်ပါစာရင်းမှာ ဆရာကြီးဦးဌေးလှိုင်ပြခဲ့သော စာရင်းဖြစ်ပါသည်။

၎င်းနောက် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးကြီးများအကြောင်းကို ရှာဖွေရာတွင် မည်သည့် ရဟန္တာနှင့်

ပုဂ္ဂိုလ်ထူးကြီးများကို ထည့်သွင်းဖော်ပြရမည်နည်းဟု စဉ်းစားမိပါသည်။ ထိုအခါ မိတ္ထီလာမြို့ ဝမ်းတော်ပြည့် သာသနာ့ရိပ်သာ ဓာတ်တော်များ သမိုင်းတွင် တစ်ဘဝသာသနာ ကျမ်းပြု(ခန္ဓာဝန် ချတော်မူသောအခါ မျက်လုံးတော်၊ နှလုံးတော်နှင့် ဓာတ်တော်များ ကြွင်းကျန်တော်မူသော) ရဟန္တာဆရာတော်ဦးယောသိတနှင့် ဓမ္မာစရိယ ဦးဌေးလှိုင်တို့က အောက်ပါအတိုင်း ရေးသားသည်ကို ဖတ်ရှုရပြန်ပါသည်။

> ဒီလို ဓာတ်တော်တွေကျတဲ့ ရဟန္တာကြီးတွေရှိသလို သူ့အဓိဋ္ဌာန်အတိုင်း အလောင်းတော် မပုပ်မသိုးတဲ့ ရဟန္တာများလဲရှိပါတယ်။ ထင်ရှားတာတော့ စွန်းလွန်းဆရာတော်ဦးကဝိတို့၊ ပုသိမ်မိဂဒါရုံဆရာတော်တို့ ရန်ကုန်တစ်ဖက်ကမ်းက ဒလ ရဟန္တာ ဦးလိပ်တို့၊ ပုပ္ပါးနားက ဖက်ပင်အိုင်ဆရာတော်တို့ နောက်ပြီး အခု ဒေးဝန်း အဘိဓဇ ဆရာတော်ကြီးရဲ့ဘေး ခင်ကြီးဒွန်းတဲ့ ထီးချိုင့်မှာ အလောင်းတော် အနှစ်၁၀၀ လောက်ရှိနေပြီ။ အခုထိ မပုပ်ဘူး၊ အဲဒါ အဓိဋ္ဌာန်အတိုင်းဖြစ်ကြတာ၊ ဓာတ်တော်ကျရင်တော့ ရဟန္တာပေါ့လေ၊ ဓာတ်တော်မကျတဲ့ ရဟန္တာလဲ ရှိတယ်ဆိုတာ ပြောချင်တာ။
>
> (ကျမ်းကိုး၊ ဓာတ်တော်များသမိုင်း စာ ၃၈ )

အထက်ပါ စာအရ ဤစာပြုသူသည် ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးကြီးများစာရင်းကို အောက်ပါအတိုင်း ကောက်ချက်ချရပြန်ပါသည်။

၁၄။ စွန်းလွန်းဆရာတော် ဦးကဝိ၊
၁၅။ ပုသိမ် မိဂဒါရုံ ဆရာတော်
၁၆။ ရန်ကုန် တစ်ဖက်ကမ်းက ဒလ ရဟန္တာ ဦးလိပ်
၁၇။ ပုပ္ပါးနားက ဖက်ပင်အိုင်ဆရာတော်
၁၈။ ထီးချိုင့် ခင်ကြီးဒွန်းဆရာတော်

ဤသို့ဖြင့် ရဟန္တာနှင့်ရဟန်းထူးများ၏ မဟာထေရုပ္ပတ္တိများ ပြုစုရန် ထပ်မံလေ့လာရပြန်ပါသည်။ ဤသို့ဖြင့် ဤစာပြုသူသည် ဆက်လက်ရှာဖွေပြန်ရာ အောက်ပါကျမ်းညွှန်းကို ပြန်လည်ဖတ်ရှုရပြန်ပါသည်။

> ဘုန်းကြီး လက်လှမ်းမှီသလောက်ပေါ့လေ၊ သာသနာတော် နေလို လလို ထင်ရှားကြတဲ့ ရေစကြို ဂူဖြူတောရ ဆရာတော်တို့၊ ပခုက္ကူ သဲပုံဆရာတော် ဦးကြည်တို့၊ ဝေဘူဆရာတော်ကြီးတို့၊ မုဒုံက ဂျုံးဂျုံးကျ ဆရာတော်တို့၊ ထားဝယ်ဘက်က ဇေယျဝတီဆရာတော် ဦးသီလတို့၊ တောင်ဘွား ဆရာတော်တို့၊ မြိတ်(ကျွဲကူး) ဘုန်းကြီး ဦးနန္ဒိယတို့၊ ဒီဆရာတော်ကြီးတွေလဲ ရဟန်းကိစ္စပြီးနိုင်တဲ့ အထောက်အထားတွေ ရှိတယ်။ ဒါပေမဲ့ သဲသဲကွဲကွဲ မခန့်မှန်းနိုင်ကြတော့ဘူး။ ဓာတ်တော်ကျတာတော့ အခိုင်မာဆုံး အထောက်အထားပေါ့လေ။
>
> (ကျမ်းကိုး၊ ဓာတ်တော် သမိုင်း စာ ၃၈ )

အထက်ပါစာအရ ဤစာပြုသူသည် ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးကြီးများစာရင်းကို အောက်ပါအတိုင်း ကောက်ချက်ချရပြန်ပါသည်။

၁၉။ ရေစကြို ဂူဖြူတောရဆရာတော်
၂၀။ ပခုက္ကူ သဲပုံဆရာတော် ဦးကြည်

၂၁။ ဝေဘူဆရာတော်ကြီး

၂၂။ မုဒုံက ဂျိုးဂျိုးကျဆရာတော်ဘုရားကြီး

၂၃။ ထားဝယ်ဘက်က ဇေယျဝတီဆရာတော် ဦးသီလ

၂၄။ တောင်ဘွားဆရာတော်

၂၅။ မြိတ် ကျွဲကူး ဘုန်းကြီး ဦးနန္ဒိယ

ဤသို့ဖြင့် ဆက်လက် ရှာဖွေ စုဆောင်းခဲ့ရပြန်ပါသည်။

စရေးအရှေ့ရွာဆိုသည်ကို ရုတ်တရက်မသိသဖြင့် အတော်ကြာခဲ့ပါသည်။ နောင်သောအခါမှ စစ်ကိုင်းမြို့ ကောင်းမှုတော်ဘုရားကြီးနှင့် ၆ မိုင်လောက်အကွာမှာရှိသော စရေးအရှေ့ရွာ ဖြစ်ကြောင်း သိရှိရပါသည်။ ထိုဆရာတော်ဘုရားကြီးအကြောင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း နာခံ မှတ်သား ရပြန်ပါသည်။

> ဒါနဲ့ တစ်ဆက်တည်းပြောရမယ်ဆိုရင် စစ်ကိုင်းမြို့ ကောင်းမှုတော်ဘုရားကြီး နဲ့ ၆ မိုင်လောက်မှာ စရေးအရှေ့ရွာဆိုတာရှိတယ်။ အဲဒီဆရာ တော်ကြီးဟာ လွန်ခဲ့တဲ့ ၄ နှစ်လောက်က ပျံလွန်တော်မူလို့ မီးသဂြိုဟ်တဲ့ အခါကျတော့ ဓာတ်တော်တွေ ကျတယ်။ သပိတ်တစ်လုံးစာလောက်ရတယ်။ ဓာတ်တော်အရွယ်အစား စုံစုံလင်လင်ပဲ၊ မုန်ညင်းစေ့အရွယ် ဆန်ကျိုးအရွယ်တွေများပါတယ်။

> ၁၉၄၃ ဒီစရေး အရှေ့ရွာ ဆရာတော်ကြီးဟာ ၁၃၀၅ ခု လောက်ထဲက တရားထူး တွေ့ပုံရတယ်။ မင်းကွန်းဇေတဝန်ဆရာတော်ကြီးဆီမှာလည်း နည်းခံဖူးတယ်။ ပရိယတ် ပရိပတ် စွယ်စုံပုဂ္ဂိုလ်ပါ ဆဋ္ဌသင်္ဂါယနာ တင်စဉ်က တက်တက်ကြွကြွ ပါဝင်ခဲ့တာပါ။

> မင်းကွန်းဇေတဝန် ဆရာတော်ကြီးရဲ့ရွာ ကျောက်ပန်း၊ ကန်ကြီးကုန်းဆိုတာ ဒီစရေးရွာနဲ့ ၂ မိုင်လောက်ပဲဝေးတာ၊ ဒီဆရာတော်ကြီးရဲ့ ဓာတ်တော်တွေလဲ ဓမ္မာစရိယ ဦးငွေလှိုင်ပင့်လာခဲ့လို့ ဓာတ်တော်တိုက်ထဲမှာ ပူဇော်ထားပါတယ်။

(ကျမ်းကိုး၊ ဓာတ်တော် သမိုင်း စာ ၃၆ )

ဤသို့ဖြင့် ဤစာပြုသူသည် စရေးအရှေ့ရွာ ဆရာတော်ဘုရားကြီးအကြောင်းကို သိသင့် သလောက် သိခွင့်ရပါတော့သည်။ ထိုဆရာတော်ဘုရားကြီးကို ကန်တွင်းဆရာတော်ဘုရားကြီးဟု ခေါ်ကြောင်းလည်း နောင်သောအခါ သိရပြန်ပါသည်။ ထိုကြောင့် ကန်တွင်းဆရာတော်အပါအဝင် ရဟန္တာနှင့်ရဟန်းထူးများ၏ မဟာထေရုပ္ပတ္တိကို ရှာဖွေရပြန်ပါသည်။

၎င်းနောက် အကြောင်းအားလျော်စွာ မင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီး၏ မဟာ ထေရုပ္ပတ္တိကိုလည်း ဆက်လက်စုံစမ်းရပြန်ပါသည်။ ထိုဆရာတော်ဘုရားကြီး၏ ဓာတ်တော်များကို ဓမ္မာစရိယ ဦးငွေလှိုင်ကိုယ်တိုင် ပင့်ဆောင်လာခဲ့သဖြင့် မိတ္တီလာ ဝမ်းတော်ပြည့် ဓာတ်တော်တိုက်တွင် ပူဇော်ထားသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ဓာတ်တော် သမိုင်း စာ ၃၆)

၎င်းနောက် စလင်းဆရာတော်ဘုရားကြီး၏ ဓာတ်တော်များကို မိတ္တီလာ ဝမ်းတော်ပြည့် ဓာတ်တော်တိုက်တွင် ဖူးမြော်ရပြန်ရာ ဤစာပြုသူသည် စလင်း ကန်လယ်ဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကို ဆက်လက်ရှာဖွေရပြန်ပါသည်။

၁၉၈၈ ၁၃၅၀ ခုနှစ်က ပျံလွန်တော်မူတဲ့ စလင်းကန်လယ် ဆရာတော်ကြီး၊ ဒီဆရာတော်ကြီးလဲ မီးသဂြိုဟ်တော့ ဓာတ်တော်တွေကျတယ်။ အရွယ်အစားကတော့ မုန်ညင်းစေ့အရွယ် ဆန်ကျိုးအရွယ်တွေပါတဲ့။ ရေစကြို မအူလေးရွာဇာတိပေါ့။

ရှင်မတောင်တို့ စက်တော်ရာတို့ ကျောင်းတော်ရာတို့ အဲဒီနေရာတွေမှာ တရားအားထုတ်ခဲ့တာ အကျော်ဒေးယျ ဆရာတော်ကြီးပါပဲ။ အဘိဓဇ ပြည်ဟာရာဏသီ ဆရာတော်နှင့် အလွန်ရင်းနှီးတာ အခုတော့ စလင်းကန်လယ်ဆရာတော်ကြီးရဲ့ အဆက်တစ်ပါး ဆားလင်းကြီးမြို့နားမှာ တောရမှီနေတာ ရှိလေရဲ့။

(ကျမ်းကိုး၊ ဓာတ်တော် သမိုင်း စာ ၃၇)

ဤစာပြုသူအဖို့ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးတစ်ပါး တိုးလာပြန်သဖြင့် ဆက်လက်ရှာဖွေ ရပြန်ပါသည်။ ထိုဆရာတော်ကြီးမှာ စလင်းကန်လယ်ဆရာတော်ဘုရားကြီး၏အဆက် စလင်းကြီးမြို့နားမှာ တောရပ်မှီနေသော ဆရာတော်ဘုရားကြီး ဖြစ်သည်ဟု ဆိုပါသည်။

ဤစာပြုသူသည် မန္တလေးမြို့ နဒီ မြန်မာ ဟိုတယ်ကြီးကို ဦးစီးသော ဦးအောင်ခိုင် ဆိုသူနှင့် အလွန်ခင်ကြပါသည်။ ဦးအောင်ခိုင်ပြုသော ကျေးဇူးတို့ များစွာရှိ၏။ တစ်ဆက်တည်းမှာပင် ဇေကမ္ဘာကုမ္ပဏီ ဥက္ကဋ္ဌ ဒေါက်တာခင်ရွှေ မိသားစုတို့ ကျေးဇူးကလည်း များလွန်းသဖြင့် မဆပ်နိုင်တော့ပါဟု ဤစာပြုသူက ခဏခဏပြောရာ နဒီမြန်မာ ဦးအောင်ခိုင်က အလွန်သဘောကျစွာ ရယ်လေ့ရှိပါသည်။

ထိုဦးအောင်ခိုင်နှင့် ဤစာပြုသူတို့သည် ဇေကမ္ဘာ ဥက္ကဋ္ဌ အဂ္ဂမဟာ သီရိသုဓမ္မဓမ္မဇောတိကဓရ လူမှုထူးချွန် ပထမဆင့်ရ ဂုဏ်ထူးဆောင် စီးပွားရေး ပါရဂူ ဘွဲ့နှစ်ထပ်ကွမ်းပိုင်ရှင် ဒေါက်တာခင်ရွှေ၏ ကောင်းမှုကြောင့် ထိုင်းနိုင်ငံ ကမ်ချာနာပူရီမြို့သို့ သာသနပြု ခရီးစဉ်တစ်ခု လိုက်ပါခဲ့ရာတွင် ကံကောင်းထောက်မသဖြင့် မြေငူဆရာတော် ရဟန္တာ ဦးကုသလ၏ ဓာတ်တော်များကို ထိုနဒီမြန်မာ ဦးအောင်ခိုင်၏ ကောင်းမှုကြောင့် ဖူးခဲ့ရသည်ဖြစ်ရာ ဦးအောင်ခိုင်ကို များစွာ ကျေးဇူးတင်မိပြန်တော့သည်။

ထို မြေငူဆရာတော်ဘုရားကြီးအကြောင်းကို ပြုစုရန် ဤစာပြုသူသည် တာဝန်ပိုလာပြန်သည်။ ရှာဖွေရပြန်ပါသည်။

ပြီးတော့ ဒီဓာတ်တော်တိုက်ထဲမှာ မြေငူရွာ၊ သရက်တောကျောင်း ဆရာတော် ဦးကုသလ၏ ဓာတ်တော်လို့ တွေ့ရပါတယ်ဘုရား၊ (ဒီအကြောင်းအရာကိုလဲ မိန့်ပါဦး)

ဒီဆရာတော် စစ်ကိုင်းတံတားနားက ခံတပ်ကြီးကနေပြီးတော့ မြစ်ဆိပ်အတိုင်း အောက်ကိုသွားရပါတယ်။ (မှန်ပါ) အဲသလိုသွားရင် မြေငူရွာဆိုတာ ရောက်ပါတယ်။ အဲဒီမှာ သရက်တောကျောင်းဆိုတာရှိတယ်။ အဲဒီကျောင်းက ဆရာတော်ကြီး ဦးကုသလပေါ့။ (မှန်ပါ ဘုရား)

အဲဒီ ဆရာတော်ကြီးက အင်မတန်အေးပါသတဲ့၊ စကားလဲ သိပ်မပြောပါဘူး၊ သူ့ဆီကို ဧည့်သည်များလာရင် အော် လာကြသလား ဒါလောက်ပဲ မေးလေ့ရှိတယ်။ ပြန်ပြီဆိုရင်လဲ အော် ပြန်ကြပြီးလား ဒါလောက်ပါပဲတဲ့ စကားနည်းတော်မူတယ်။ (မှန်ပါ)

အဲဒီ ဆရာတော်ကြီး ပျံလွန်တဲ့အခါ မီးသဂြိုဟ်တော့ ဓာတ်တော်တွေကျတော့တာပဲ၊ ဒီတော့မှ တအံ့တသြဖြစ်တော့တာ (မှန်ပါ) ဟိုတုန်းကတော့ ကိုယ့်ဆရာတော်ကြီးအပေါ်မှာ သာမန်ပဲ (မှန်ပါဘုရား) နောင်မှ အထင်ကြီးလာကြတာ (မှန်ပါ)

အဲဒီဆရာတော်ကြီးရဲ့ တပည့်ရင်း ဦးဉာဏ်တဲ့၊ ဒီလူက သာသနာကို သိပ်ပြီး မကြည်ညိုဘူး၊ ရတနာ ၃ ပါးကို မယုံကြည်ဘူး၊ အဲဒီဆရာတော်ကြီး ဦးကုသလကို အစ်ကိုလိုသာ ခင်မင်ပါတယ်။(မှန်ပါ)

(ကျမ်းကိုး၊ ဓာတ်တော် သမိုင်း စာ ၃၅-၃၆ )

ဆရာတော်ကြီး ပျံလွန်တော်မူသော ရုပ်အလောင်းက ပုပ်ခြင်း၊ နံစော်ခြင်း အလျဉ်းမရှိပါဘူးတဲ့၊ ရိုးရိုး အသက်ရှိသူများကဲ့သို့ ပျော့ပျော့ပျောင်းပျောင်းပါပဲတဲ့၊ ဒါကြောင့် ဒကာ ဒကာမတွေက မီးဖြင့် မသင်္ဂြိုဟ်ချင်ကြဘူး၊ ဒီအတိုင်းပဲ ရုပ်အလောင်းကို မှန်ခေါင်းနဲ့ ထားချင်ကြတယ်တဲ့။ (မှန်ပါဘုရား)

ဆရာတော် သံဃာတော်တွေကတော့ မီးဖြင့်သင်္ဂြိုဟ်ရမယ်လို့ပဲ တညီတညွတ်တည်း ဆုံးဖြတ်ကြသတဲ့၊ လူတွေကတော့ မသင်္ဂြိုဟ်ချင်ကြဘူး။ ဒီလိုနဲ့ ပြောဆိုနေတုန်း ယင်မမဲရိုင်းတွေက တဝုန်းဝုန်းနဲ့ လာလိုက်ကြတာ ကျောင်းခန်းမကြီး တစ်ခုလုံး ပြည့်သွားတာပဲတဲ့။ (မှန်ပါ)

မီးရှို့ပြီးနောက် ၂ ရက်လောက်ရှိတော့မှ ဦးဉာဏ်နဲ့ တိပိဋကဆရာတော် ဦးကောသလ္လထံမှာနေတဲ့ ဆရာတော်ရဲ့တပည့် ဦးဝဏ္ဏိတတို့ မန္တလေးက ရောက်လာတော့ ခင်ဗျားတို့ မီးသင်္ဂြိုဟ်တဲ့နေရာက ဘာမှမကောက်ကြသေးပါလားလို့ ဆိုသတဲ့။

အကုန်ကောက်ပြီးပြီလို့ ပြောတော့ မဟုတ်သေးဘူးလေ ဟောဟိုမှာ ကြည့်ပါလားလို့ဆိုတော့ ဓာတ်တော်တွေအများကြီး ဖြူဖွေးနေတာတွေ့ရသတဲ့။ လိုက်ကောက်တော့ ဓာတ်တော်မြသပိတ်နဲ့ တစ်လုံးလောက်ရသတဲ့။

ဒီတော့ ဒကာရင်းဦးဉာဏ်က ဩော် ငါ့ကို ကျွတ်စေချင်လို့ ငါ့အတွက် အဓိဋ္ဌာန်ချက်ဖြင့် ဓာတ်တော်တွေ ကျန်ထားရစ်ခဲ့တာ ဖြစ်မယ်ဆိုပြီး နောင်တတွေရ မာန်မာနတွေကျပြီး အကျွတ်တရားရသွားပါသတဲ့။ (မှန်ပါ ဘုရား)။

(ကျမ်းကိုး၊ ဓာတ်တော် သမိုင်း စာ ၃၆ )

ဤသို့ဖြင့် ဤကျမ်းစာပြုသူသည် ရဟန္တာနှင့်ရဟန်းထူးများကို မျက်စိဖွင့်ကာ နားစွင့်ကာဖြင့် လိုက်လံရှာဖွေရပါသည်။ ဤတွင် တစ်ပိုင်းတစပြီးဖြစ်သော မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဓာတ်တော်များနှင့်တကွ မဟာထေရုပ္ပတ္တိကိုလည်း စုဆောင်းရပြန်ပါသည်။

ဒီမှာ မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဓာတ်တော်လို့ ရေးထားပါတယ်။ ဤအကြောင်းအရာကိုလည်း မိန့်တော်မူပါဦးလို့ ဘုရား၊

အေး မိုးကုတ်မြို့ ဆရာတော်ကြီးဆိုတာ နေလို လလို ထင်ရှားပါတယ်။ မိုးကုတ်ဆိုလို့များ မိုးကုတ်မြို့ဇာတိသားလို့ မထင်လိုက်ပါနဲ့။ (မှန်ပါ) ဘယ်ဇာတိသားပါလဲ၊

အမရပူရမြို့ တောင်ဘက်က မြစ်ငယ်ဆိုတာရှိတယ်၊ အဲဒီနားမှာတော့ အရှေ့အနောက် စီးဆင်းနေတယ်၊ အဲဒီတံတားကြီးရဲ့ အနောက်ဘက်နား၊ မြစ်ရဲ့ အရှေ့ဘက်ကမ်းမှာ (ဥယျာဉ်တော်ရွာ)ဆိုတာရှိတယ်၊ အဲဒီဥယျာဉ်တော်ရွာ ဇာတိသားပါ။ (မှန်ပါဘုရား)

အဲဒီနောက် အမရပူရမြို့မှာ စာတွေသင်၊ မန္တလေးကိုလဲသွားသင်၊ အဲဒီနောက် အမရပူမြို့ မင်္ဂလာတိုက်ကျောင်းမှာ နှစ်ပေါင်း ၃၀ ကျော်လောက် အဘိဓမ္မာ ညဝါတွေ ပို့ချပေးတယ်။ (မှန်ပါ)

ဒုတိယကမ္ဘာစစ်ပြီးတုန်းက မိုးကုတ်မြို့အနား ဘောပဒန်းရွာမှာ ၁၀ နှစ်ခန့် နေထိုင် တရားထားထုတ်ခဲ့တာ၊

အဲဒါကို ရည်ရွယ်ပြီး မိုးကုတ်ဆရာတော်လို့ တွင်နေတာ၊ အဲဒီဆရာတော် ဘုရားဟာ ကိုယ်တော်တိုင် တရားတွေအားထုတ်ပြီး ဒကာ ဒကာမတို့အားလည်း ကျယ်ကျယ်ပြန့်ပြန့် ဟောပြတော်မူခဲ့ပါတယ်။

အဲဒီဆရာတော်ဘုရားကြီး ပျံလွန်တဲ့အခါ မီးသဂြိုဟ်ကြတော့ ဓာတ်တော် တွေ ကျပါတယ်၊ (မှန်ပါ)

အဲဒီကစပြီး မိုးကုတ်နည်း မိုးကုတ် ဝိပဿနာ မိုးကုတ်ဓာတ်တော် စသည်ဖြင့် ကျယ်ပြန့်စွာ ဖြစ်ပေါ်လာတော့တယ်။ (မှန်ပါ)

အဲဒီ မိုးကုတ်ဆရာတော်ဘုရားကြီးရဲ့ ဓာတ်တော်တွေလဲ ဒီဓာတ်တော်တိုက် မှာ ပူဇော်ထားပါတယ်။ အများဖူးမြော် တွေ့နိုင်ပါတယ်။

မိုးကုတ်ဆရာတော်ဘုရားကြီးရဲ့ ဓာတ်တော်များရှိရင် ပူဇော်ပါရစေ၊ ကိုးကွယ် ပါရစေလို့ တောင်းပန်တဲ့အတွက် လာပြီးပို့ကြတယ်။

ပြီးတော့ မန္တလေးမြို့ အောင်သြဘာလှစက်ပိုင်ရှင် ဦးအေး ဒေါ်အေးတို့က သူတို့ တိုက်မှာလဲ မိုးကုတ်ဆရာတော်ဘုရားကြီးရဲ့ ဓာတ်တော်များရှိပါတယ်။ အလိုရှိရင် လှူပါမယ်ဆိုတော့ အဲဒီကလဲ ရရှိရပါတယ်။ (မှန်ပါ)

ဒါတွင်မက အမရပူရ(တောင်မြို့) မင်္ဂလာတိုက်ဟောင်း ဆရာတော်များထံ ကလဲရပါတယ်။ အဲဒီဓာတ်တော်တွေကို မှန်ကြုတ်ကလေးထဲထည့်ပြီး ပူဇော်ထား ပါတယ်။ (မှန်ပါ ဘုရား)

(ကျမ်းကိုး၊ ဓာတ်တော် သမိုင်း စာ ၃၆ )

ဤသို့ဖြင့် ဤစာပြုသူသည် ဓာတ်တော်များနှင့်တကွ ကိုယ်တိုင် ဖူးမြော်ရခဲ့သူများထံမှ အချက်အလက်များကို ရရှိသဖြင့် ပိုမိုတိုးချဲ့၍ မိမိဘာသာ မိမိ ရှာဖွေရပါသည်။

၎င်းအပြင် မင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသောအခါ ဓာတ်တော်များ ကျတော်မူကြောင်း သိရှိခဲ့ပြီးဖြစ်ပါသည်။

ယခုအခါ ဆရာတော် ဦးဃောသိတနှင့်ဓမ္မာစရိယ ဦးဌေးလှိုင်တို့၏ မှတ်တမ်းအရ မင်းကွန်း ဇေတဝန် ဆရာတော်ဘုရားကြီး၏ ဓာတ်တော်များအကြောင်းအရာကိုသာမက သိသင့် သိထိုက်သည် များကို အောက်ပါအတိုင်း ပို၍ သိလာရပြန်ပါသည်။ ဓာတ်တော်ကျသည့်ကိစ္စနှင့် စပ်လျဉ်း၍ ရှေးအဆို များကိုလည်း သိခွင့်ရပါသည်။

ဒီကိစ္စနှင့် ပတ်သက်လို့ မင်းကွန်းဇေတဝန် ဆရာတော်ကြီးရဲ့ အဆို မှတ်မိ ပါတယ်။ ဒီမင်းကွန်း ဇေတဝန်ဆရာတော်ကြီးဆိုတာ အဋ္ဌကထာကျမ်းကြီးပြု ပုဂ္ဂိုလ်ကြီးပါပဲ။

ရှေးရှင်မဟာဗုဒ္ဓဃောသတို့ လက်ထက်က အဋ္ဌကထာ ၃၈ ကျမ်းကို ပြုစုခဲ့ပြီး ကျန်တဲ့ ပေဋကောပဒေသကျမ်းနှင့် မိလိန္ဒပညာကျမ်းကို မင်းကွန်းဇေတဝန် ဆရာ တော်ကြီးက အဋ္ဌကထာ ဖွင့်ဆိုခဲ့တယ်။

ဒီဆရာတော်ကြီးဟာ ရွှေကျင်အစ သီးလုံးကဆိုတဲ့ သီးလုံးဆရာတော်ကြီးရဲ့ အစဉ်အဆက် တပည့်ဖြစ်တယ်။

ဒီမင်းကွန်းဇေတဝန်ဆရာတော်ကြီး ပျံလွန်တော်မူခါနီးတော့ တပည့်

တစ်ပါးက မေးတယ်။ အရှင်ဘုရား ရဟန္တာများ ပရိနိဗ္ဗာန်ပြုရင် ပုပ်သလား ဘုရားတဲ့၊ ဆရာတော်ကြီးကဖြေတယ်။ ပုပ်တာပေါ့တဲ့၊ ရှင်းရှင်းလင်းလင်း ပြောကြားတော်မူတယ်။ ဒီလိုဆို မပုပ်အောင် ဘယ်လိုလုပ်ရသလဲဘုရားဆိုတော့ အဓိဋ္ဌာန်ပြုရတယ်လို့ ထပ်ဖြေပြန်ပါတယ်။ ဓာတ်တော်တွေကျတာလဲ ရဟန္တာများ ပရိနိဗ္ဗာန်ပြုတော်မမူခင်မှာ အဓိဋ္ဌာန်ချက်ကြောင့်ဖြစ်တယ်ဆိုတာ ရှင်းရှင်းလင်းလင်း သိရတယ်။

ရဟန္တာတိုင်း ပရိနိဗ္ဗာန်ပြုပြီးရင် ဓာတ်တော်မကျဘူး၊ သူ့အဓိဋ္ဌာန်အတိုင်းဖြစ်တယ်ဆိုတာလဲ သိထားရမယ်။ (မှန်ပါဘုရား) ဒီမင်းကွန်း ဇေတဝန် ဆရာတော်ကြီး ပျံလွန်တော်မူတော့ ဓာတ်တော်ကျတယ်။

(ကျမ်းကိုး၊ ဓာတ်တော် သမိုင်း စာ ၃၇ )

ဤသို့ဖြင့် ဤစာပြုသူသည် မင်းကွန်း ဇေတဝန် သထုံ မူလဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကိုလည်း ရှာဖွေစုဆောင်းရပြန်ပါသည်။ ၎င်းအပြင် တစ်စွန်းတစ သိရှိပြီးဖြစ်သော ကျပ်ကန်ဆရာတော်ဘုရားကြီးအကြောင်းကိုလည်း အနည်းငယ် ပို၍ သိခွင့်ရပြန်ပါသည်။

ဒီလိုပါပဲ ညောင်ဦးမှာလဲ လွန်ခဲ့တဲ့ နှစ်နှစ်သုံးနှစ်လောက်က ပျံလွန်တော်မူသွားတဲ့ ဂူအောင်းဆရာတော်ကြီးတစ်ပါးလဲ မီးသင်္ဂြိုဟ်တော့ ဓာတ်တော်တွေကျတယ်၊

အဲဒီဆရာတော်ကြီးက အနှစ် ၅၀ လောက် ဂူအောင်းပြီး တရားကျင့်ခဲ့တာ၊ ရေတောင်မှ တစ်နှစ်မှ တစ်ခါလောက်ပဲ ချိုးသတဲ့၊ ဗာဟီရ အလွန်နည်းတော်မူတာ၊

(ကျမ်းကိုး၊ ဓာတ်တော် သမိုင်း စာ ၃၇ )

ဤသို့ဖြင့် ဤစာပြုသူသည် ဓာတ်တော်များသမိုင်းများမှတစ်ဆင့် ရဟန္တာနှင့် ရဟန်းထူးများ သမိုင်းကို ရှာဖွေစုဆောင်း ရပြန်ပါသည်။

၁၉၉၃ ခုနှစ်တွင် နဝမအကြိမ် ပုံနှိပ်ထုတ်ဝေသော ဓမ္မာစရိယ ဦးဌေးလှိုင်၏ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများသမိုင်းတွင် ပထမတွဲ၊ ဒုတိယတွဲ၊ တတိယတွဲနှင့်တကွ ပုံမနှိပ်ရသေးသော စတုတ္ထတွဲကိုပါ ပေါင်းစည်းပြီး အသစ်ထပ်မံ တည်းဖြတ် ပြုပြင်၍ စီစဉ်ရိုက်နှိပ်သည်ဟူသော စာကို ဖတ်ရ၍ ဝမ်းသာပီတိဖြစ်ရပါသည်။ ကြည်ညိုရပါသည်။

ဤစာပြုသူသည် -

၁။ ကုန်းဘောင်ခေတ် ရဟန္တာနှင့် ရဟန်းထူးများ အကြောင်းအရာများကိုလည်းကောင်း၊
၂။ ကိုလိုနီ နယ်ချဲ့ခေတ် ရဟန္တာနှင့် ရဟန်းထူးများ အကြောင်းအရာများကိုလည်းကောင်း၊
၃။ လွတ်လပ်ရေး ရပြီးစကာလမှစ၍ ရဟန္တာနှင့် ရဟန်းထူးများ အကြောင်းအရာများကိုလည်းကောင်း၊
၄။ ခေတ်ပြောင်းတော်လှန်ရေးခေတ် လမ်းစဉ်ပါတီခေတ်အတွင်း ရဟန္တာနှင့်ရဟန်းထူးများ အကြောင်းအရာများကို လည်းကောင်း၊
၅။ မျက်မှောက်ခေတ် ရဟန္တာနှင့် ရဟန်းထူးများ အကြောင်းအရာများကိုလည်းကောင်း၊

စိတ်ရှည် လက်ရှည် လေ့လာ စုဆောင်းခဲ့ရပါသည်။ စာအုပ်ထုတ်ရန်အတွက် မဟုတ်ပါ။ ကြည်ညိုသဖြင့် ရှာဖွေခြင်းသာဖြစ်ပါသည်။

ဤသို့ဖြင့် ဤစာပြုသူသည် ခေတ်ငါးခေတ်အတွင်း ပွင့်ပေါ်ကြသော ရဟန္တာနှင့် ရဟန်းထူးများ၏ မဟာထေရုပ္ပတ္တိ ရုပ်ပုံလွှာများကို ရှာပုံတော်ဖွင့်ရပါသည်။

မွှာစရိယ ဦးဌေးလှိုင်၏ ကုန်းဘောင်ခေတ် မန္တလေးခေတ် စာရင်းပါ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

၁။ စတုဂီရိ တောင်လေးလုံး ဆရာတော်ညီနောင်
၂။ ဈာနလာဘီ အရှင်မုနိန္ဒဃောသနှင့် အရှင်ဂမ္ဘီသာရ
၃။ သီးလုံးဆရာတော်နှင့် ကင်းတောရဆရာတော်
၄။ ထွင့်ခေါင်ဆရာတော်
၅။ အသက်တစ်ရာရှည်သော ရဟန္တာ ဦးသာရွှန်း (ဦးကဝိန္ဒ)
၆။ ရေစကြို ငူဖြူတောရဆရာတော်
၇။ ပုသိမ် မိဂဒါရုံဆရာတော်
၈။ ဘုန်းတော်ကြီး ဦးသီလ
၉။ ပခုက္ကူဆရာတော် ဦးကြည်
၁၀။ ဒေးစွန်ပါတောင်မှ ဈာန်အဘိညာဉ်ရ ပုဂ္ဂိုလ်ထူးနှစ်ပါး
၁၁။ လယ်တီဆရာတော်
၁၂။ လှေသင်းမင်းကျောင်းဆရာတော်
၁၃။ စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံကျောင်း ဆရာတော်
၁၄။ ပြည် အင်ကြင်းမြောင် နိဗ္ဗိန္ဒ ဆရာတော်
၁၅။ ကြောင်ပန်းတောရ ဆရာတော်
၁၆။ ညောင်လွန့်တောရ ဆရာတော်
၁၇။ သထုံ ဇေတဝန်ဆရာတော်
၁၈။ သေကျွတောင် ဆရာတော် ဦးတိလောက
၁၉။ မိုးညှင်းတောရ ကိုယ်တော်ကြီး
၂၀။ သိမ်တောင် အင်းမကြီးတောရ ဆရာတော်
၂၁။ စွန်းလွန်းဆရာတော် ဦးကဝိ
၂၂။ ရဟန္တာ ဦးမဏိသာရ
၂၃။ ကန္တီရွှေသိမ်တောရ ဆရာတော်
၂၄။ သိမ်တောင်ဆည်ကြီးတောရ ဆရာတော်
၂၅။ သပိတ်အိုင်တောရ ဆရာတော်
၂၆။ နဲ့သမိန် ဆရာတော်
၂၇။ မိုးကုတ်ဆရာတော်
၂၈။ ကသစ်ဝိုင် ဆရာတော်

အထက်ပါ ၂၈ ပါးသော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများအကြောင်း မဟာထေရုပ္ပတ္တိ ရုပ်ပုံလွှာကို

ဓမ္မာစရိယ ဦးဌေးလှိုင်သည် သူ၏ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ရိုက်နှိပ်ခြင်း ၁၉၉၃ ခုနှစ်ထုတ် စာအုပ်ကြီးတွင် ဖော်ပြပါရှိပါသည်။

ဤစာပြုသူသည် မပါမဖြစ်သော အထက်ပါ ဆရာတော်ကြီးများ၏ မဟာထေရုပ္ပတ္တိ ရုပ်ပုံလွှာများကိုလည်း စကားပြေသက်သက်ဖြင့် လွယ်များ အထူးသဖြင့် မျိုးဆက်သစ်များ အလွယ်တကူ ရှာဖွေဖတ်ရှုနိုင်ရန် မူရင်းစာအုပ်များကို တတ်နိုင်သမျှ ရှာဖွေပါသည်။ စုဆောင်းပါသည်။ မှတ်စုထုတ်ပါသည်။ ထပ်မံဖော်ပြပါသည်။ ပြန်လည် ရေးသားပါသည်။ ကိုးကားပါသည်။ လိုရင်းတိုရှင်း ပြုစုပါသည်။

ဤတွင် ဤစာပြုသူသည် ယနေ့ ခေတ်ပေါ် ဂျာနယ် မဂ္ဂဇင်းများကို ကျေးဇူးစကား အထူးဆိုရပါမည်။ လစဉ်ထုတ် နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ သူရဿ မဂ္ဂဇင်း၊ ဂမ္ဘီရ မဂ္ဂဇင်း၊ ရောင်ပြန်မဂ္ဂဇင်း၊ မြတ်မင်္ဂလာ စာစောင်၊ မြတ်ပန်းရဂုံ စာစောင်၊ ပါရမီ မဂ္ဂဇင်း၊ ဗုဒ္ဓဓမ္မကြေးမုံ စသည်စသည်အားဖြင့် အပတ်စဉ် လစဉ် ထွက်ရှိနေကြသော စာနယ်ဇင်းတို့တွင် သက်ဆိုင်ရာ မြို့ခံ နယ်ခံ စာရေးဆရာများက သာသနာ့ အကျိုးဆောင်ကြပါသည်။ အခိုင်အမာ ရေးသားကြပါသည်။ စာတွေ့ ငါတွေ့ ရေးသားကြပါသည်။

ထိုသို့သော ကြီးကြီး ငယ်ငယ် ရွယ်ရွယ် လတ်လတ် သာသနာ့အကျိုးဆောင် စာရေးဆရာများသည် တစ်သက်တာတွင် တစ်ပုဒ်သာ ရေးသည်ဖြစ်စေ၊ တစ်နှစ်တွင် တစ်ပုဒ်သာ ရေးသည်ဖြစ်စေ၊ သာသနာကို ကြည်ညိုစွာဖြင့် တစ်ကြိမ်တစ်ခါ တစ်ရံတစ်ဆစ် ပါဝင်ရေးသားကြသောကြောင့်သာ ဤစာပြုသူတို့ မသိရသေးသော မြန်မာပြည်တစ်လွှားအတွင်း အနယ်နယ်အမြို့မြို့ အရွာရွာရှိ ရဟန္တာနှင့် ရဟန်းထူးများအကြောင်းကို လေ့လာဖတ်ရှုခွင့်ရသဖြင့် အဆိုပါ စာပြုစာရေးဆရာတို့၏ အကျိုးဆောင်မှုကြောင့်သာ ကိုးကားရေးခွင့်ရသဖြင့် အထူးကျေးဇူးဆိုအပ်ပါသည်။

ထို့ကြောင့်လည်း သက်ဆိုင်ရာ ပုဂ္ဂိုလ်အသီးသီးတို့၏ ဂုဏ်ထူးကို ဖော်ပြ၍ ကိုးကား စာမျက်နှာနှင့်တကွ ကိုးကားရေးသားအပ်ပါသည်။ ဝမ်းမြောက်စွာဖြင့် ထပ်ဆင့် ကုသိုလ်ပွားများ စေလိုသောကြောင့်ဖြစ်ပါသည်။ ထိုကြောင့် ဤကျမ်းစာသည် မြန်မာနိုင်ငံ တစ်ဝန်းလုံးရှိ သာသနာ့အကျိုးဆောင် စာရေးဆရာများ ဆောင်းပါးဆရာများ မဟာဂန္ထာရီ ပုဂ္ဂိုလ်များ၏ ကြိုးပမ်းမှုတို့ကြောင့်သာ ဖော်ပြပါ အချက်အလက်များကို ရေးသားတင်ပြနိုင်ခွင့် ရခြင်းဖြစ်သဖြင့် သာသနာတော်၏ အကျိုးအတွက် လွန်စွာပီတိဖြစ်ရပါ၏ ဂုဏ်ယူရပါ၏ သာဓုခေါ်ပါ၏။ အမျှဝေပါ၏။

ၸငင်းအပြင် ဤစာပြုသူသည် ဆရာကြီး ဦးဌေးလှိုင်၏ စာအုပ်ထူထူကြီးတွင် မပါသေးသော ရဟန္တာနှင့် ရဟန်းထူးများကို ဖွားသက္ကရာဇ်နှင့်တကွ ဖော်ထုတ်တင်ပြအပ်ပါသည်။ ကျေးဇူးဆပ်ပါသည်။

အထက်ပါ ဖော်ပြပါ ဆရာကြီး ဦးဌေးလှိုင်၏ ကျေးဇူးကြောင့် ဖတ်ရှု ကြည်ညိုခွင့်ရသောကြောင့်သာ ဤစာပြုသူသည် ဤကျမ်းစာကို ရေးသားနိုင်ခြင်းဖြစ်ပါသည်။ ဆရာကြီး ဓမ္မာစရိယ ဦးဌေးလှိုင်၏ ကျေးဇူးကို အောက်မေ့၍ ဤစာပြုသူသည် ရဟန္တာနှင့် ရဟန်းထူးများ စာအုပ်ကြီးကို ရေးသားပြုစုပါသည်။ ဆရာကြီးဦးဌေးလှိုင် ပြုစုခွင့်မရခဲ့သော ရဟန္တာနှင့် ရဟန်းထူးများ၏ အကြောင်းအရာများကိုလည်း ထပ်မံဖြည့်စွက်ပါသည်။ ဤသို့ ဖြည့်စွက်ခြင်းသည်လည်း ဓမ္မာစရိယ ဦးဌေးလှိုင်၏ ဂုဏ်ကျေးဇူးကို ဖော်ထုတ်ပူဇော်ရာ ရောက်ပါသည်ဟု ယူဆပါသည်။

ဆရာကြီး ဦးဌေးလှိုင်၏ စာတွင် ကုန်းဘောင်ခေတ်နှင့် စပ်လျဉ်းသော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၂၈ ပုဒ် ပါရှိပါသည်။

ဤကျမ်းစာတွင် ကုန်းဘောင်ခေတ်မှစ၍ ယနေ့ မျက်မှောက်ခေတ် ကာလအထိ ရဟန္တာနှင့် ရဟန်းထူးပေါင်း (၈၇)ပါး ပါဝင်ပါသည်။ အမှန်မှာ ဤကျမ်းစာ ပြုစုသူသည် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများအပါးပေါင်း ၁၅၀ ကျော် စုဆောင်းရရှိထားပါသည်။ အလျဉ်းမသင့်သေးသဖြင့် ဤစာတွင်

(၈၇) ပုဒ် ပါရှိပါ၏။ ဒုတိယတွဲတွင် ဆက်လက်ဖတ်ရှုတော် မူကြပါ။

စုစုပေါင်း ရဟန္တာနှင့် ရဟန်းထူးများ ၁၅၀ ကျော် ရှာဖွေ စုဆောင်းခဲ့ပြီးဖြစ်ပါသည်။ သို့သော်လည်း အချို့မှာ သက်ရှိထင်ရှား ရှိနေသေးသဖြင့် အကြောင်းကြောင်းကြောင့် ချွင်းချန်ထားခဲ့ရသည်ကို နားလည် ခွင့်လွှတ်စေချင်ပါသည်။

ဆရာကြီး ဦးဌေးလှိုင်၏စာအုပ်တွင် မပါသေးသော ရဟန္တာနှင့်ရဟန်းထူးပေါင်း တစ်ရာကျော် ပါဝင်ဖော် ပြမည်ဖြစ်ပါသဖြင့် ဝမ်းမြောက်ဝမ်းသာ သာဓုခေါ်စရာ ဖြစ်စေချင်ပါသည်။

ဤကျမ်းတွင် ပါရှိသော ရဟန္တာနှင့် ရဟန်းထူးများမှာ မွေးဖွားသက္ကရာဇ်အတိုင်း စီစဉ်ဖော်ပြထားပါသည်။ ထိုကြောင့် ကမ္ဘာပေါ်တွင် ထေရဝါဒ ဗုဒ္ဓသာသနာ သမိုင်းနှင့် စပ်လျဉ်း၍ ကမ္ဘာ့ထိပ်ဆုံးသို့ ရောက်နေသော မြန်မာနိုင်ငံတော် ထေရဝါဒ ဗုဒ္ဓဘာသာ သမိုင်းကို ဆန်းစစ်လျှင် မြန်မာနိုင်ငံသည် ရဟန္တာနှင့် ရဟန်းထူးများ အပေါ်များဆုံးသော နိုင်ငံဖြစ်ကြောင်းကိုလည်း မှတ်တမ်းတင်ချင်ပါသည်။ ကုသိုလ်ယူချင်ပါသည်။

၎င်းအပြင် မြန်မာနိုင်ငံတွင် မည်သည့်အခါမှ ရဟန္တာမဆိတ်သုဉ်းခဲ့ကြောင်းကိုလည်း မှတ်တမ်းတင် ပူဇော်ချင်ပါသည်။ ထိုအချက်ကို သက်သေပြလိုသဖြင့် မွေးဖွားသက္ကရာဇ်များကို အစီအစဉ် အလိုက် တင်ပြခြင်းဖြစ်ပါသည်။ အချို့သောနှစ်များတွင် ရဟန္တာနှင့်ရဟန်းထူးများဖြစ်လာမည့် ရဟန္တာနှင့် ရဟန်းထူးအလောင်းအလျာများသည် တစ်နှစ်တည်းမှာပင် ၃-ပါး ၄-ပါးမက ဖွားမြင်တော်မူကြောင်း လေ့လာတွေ့ရှိရပါသည်။ ယနေ့ မျက်မှောက်ခေတ် ရဟန္တာနှင့် ရဟန်းထူးများ မဆိတ်သုဉ်းသော မြန်မာနိုင်ငံကြီးဖြစ်ကြောင်း ဂုဏ်ယူလျက် သက်သေထူလိုသဖြင့် ဤကျမ်းကို ပြုစုရခြင်းဖြစ်သဖြင့် အလွန်ကြီးလေးသောတာဝန်ကို ထမ်းဆောင်ရသည်ဖြစ်ရာ ဉာဏ်ကြီးဉာဏ်ကျယ် ပုဂ္ဂိုလ်အသွယ်သွယ်တို့သည် ဤစာပြုသူ၏အမှားများကိုလည်းကောင်း၊ ပေါ့ဆမှုများကိုလည်းကောင်း သတိချို့ယွင်း လစ်ဟင်းမှုများကိုလည်းကောင်း မုချတွေ့ကောင်းတွေ့ရှိပါလိမ့်မည်။ ထိုအခါ အပြစ်ဟူသမျှသည် ဤကျမ်းပြုသူ၏ အပြစ်မျှသာ ဖြစ်ကြောင်းဝန်ခံလိုပါသည်။

အထူးသဖြင့် နောင်လာနောက်သား မျိုးဆက်သစ်လူငယ်များ အတွက်သာ စကားပြေဖြင့် ရေးသားသော ဤကျမ်းစာသည် သက္ကရာဇ်အလိုက် အလွယ်တကူ ရှာဖွေနိုင်စေရန် ရည်စူးခြင်းဖြစ်သဖြင့် လွယ်ကူရှင်းလင်းစေရန် ခရစ်နှစ်၊ မြန်မာသက္ကရာဇ်တို့ကို အစဉ်အတိုင်း ဖော်ပြလိုက်ပါသည်။

| ဖွားသက္ကရာဇ် | | ဆရာတော်ဘွဲ့အမည် |
|---|---|---|
| မြန်မာ | အေဒီ | |
| | | ပုဂံမင်းလက်ထက် ဒလ ရဟန္တာ ဦးလိပ် |
| | | ကင်းတောရ ဆရာတော် |
| ၁၁၄၈ | ၁၇၈၆ | သီးလုံးဆရာတော် |
| ၁၁၆၀ | ၁၇၉၈ | ထွင့်ခေါင်ဆရာတော် |
| ၁၁၇၉ | ၁၈၁၇ | အုဂ်ဖိုရ်ဆရာတော် |
| ၁၁၈၂ | ၁၈၂၀ | ပထမ ရွှေကျင်ဆရာတော် |
| ၁၁၈၇ | ၁၈၂၅ | ပိန္နဲကွင်း ဆရာတော် ဦးကလျာဏ ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၁၉၀ | ၁၈၂၈ | ရေစကြို ဂူဖြူတောရ ဆရာတော် |

| | | |
|---|---|---|
| ၁၁၉၃ | ၁၈၃၁ | ဟန်လင်း ရဟန္တာ အရှင်ဇဝန<br>ညီတော် အရှင်ဝိသုဒ္ဓိစာရ |
| ၁၁၉၄ | ၁၈၃၂ | ပုသိမ် မိဂဒါရုံ ဆရာတော် ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၁၉၄ | ၁၈၃၂ | ရဟန္တာ ဘုန်းတော်ကြီး ဦးသီလ |
| ၁၁၉၆ | ၁၈၃၄ | အဝိုင်းမင်းကျောင်းဆရာတော် |
| ၁၁၉၉ | ၁၈၃၇ | စမ်းကျဆရာတော် ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၀၀ | ၁၈၃၈ | ထိမ်တော ရွာမ ဆရာတော် ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၀၃ | ၁၈၄၁ | မန်လည်ဆရာတော် ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၀၄ | ၁၈၄၂ | ဆရာတော် ဦးကြည် |
| ၁၂၀၈ | ၁၈၄၆ | မုံရွာလယ်တီဆရာတော် |
| ၁၂၀၉ | ၁၈၄၇ | ပယင်းတွင်း ဆရာတော် |
| ၁၂၁၅ | ၁၈၅၃ | စစ်ကိုင်း ဝတ်ချက်မင်းကျောင်းဆရာတော် |
| ၁၂၁၅ | ၁၈၅၃ | မုဒုံမြို့ ဂျိုးဂျိုးကျ ဆရာတော်ဘုရားကြီး |
| ၁၂၂၀ | ၁၈၅၈ | စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံ ဆရာတော် |
| ၁၂၂၀ | ၁၈၅၈ | ရဟန္တာကုန်း ဆရာတော်ဘုရားကြီး |
| ၁၂၂၂ | ၁၈၆၀ | ကြောင်ပန်းဆရာတော် |
| ၁၂၂၂ | ၁၈၆၀ | အင်ကြင်းမြောင်ဆရာတော် |
| ၁၂၂၉ | ၁၈၆၇ | ရဟန္တာ ညောင်လွန့် တောရဆရာတော် |
| ၁၂၃၀ | ၁၈၆၈ | မယ်ဒက်ဆရာတော်ဘုရားကြီး ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၃၀ | ၁၈၆၈ | ရဟန္တာ သထုံ မင်းကွန်းဇေတဝန် ဆရာတော် |
| ၁၂၃၃ | ၁၈၇၁ | သေကျွတောင် ဦးတိလောက ဆရာတော် |
| ၁၂၃၄ | ၁၈၇၂ | မိုးညှင်း သမ္ဗုဒ္ဓေဆရာတော်ဘုရားကြီး |
| ၁၂၃၅ | ၁၈၇၃ | အင်းလေး ရွှေဥဒေါင်းတောင် ဆရာတော် |
| ၁၂၃၇ | ၁၈၇၅ | ညောင်လန်းကုန်း ဆရာတော်ဘုရားကြီး |
| ၁၂၃၉ | ၁၈၇၇ | ရဟန္တာ မြင်းခြံဂူ ဖွန်းလွန်ဂူကျောင်းဆရာတော် ဦးကဝိ (ရုပ်ကလာပ်တော် ရှိသေးသည်) |
| ၁၂၃၉ | ၁၈၇၇ | စစ်ကိုင်းတောင် မနောမယချောင် မနောမယဆရာတော် |
| ၁၂၄၂ | ၁၈၈၀ | ဦးသောဘိတ ဆရာတော် |
| ၁၂၄၄ | ၁၈၈၂ | လက်ပံဇိုင် ဦးစန္ဒ ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၄၄ | ၁၈၈၂ | သိမ်တောင် ဆရာတော် ဦးဇဝန |
| ၁၂၄၅ | ၁၈၈၃ | ဝေပုလ္လတောင် ဆရာတော်ဘုရားကြီး |

| | | |
|---|---|---|
| ၁၂၄၈ | ၁၈၈၆ | ပြည် နိမ္မိန္ဒ |
| ၁၂၅၀ | ၁၈၈၈ | ဦးဇောတိပါလ |
| ၁၂၅၃ | ၁၈၉၁ | ဗန်းမောက် ရဟန္တာ ဇေ့သုက္ခိဆရာတော် (ရုပ်ကလာပ်တော်ရှိသေးသည်) |
| ၁၂၅၅ | ၁၈၉၃ | တော်ကူးဆရာတော် |
| ၁၂၅၅ | ၁၈၉၃ | သပိတ်အိုင်တောရ ဦးကိတ္တိ |
| ၁၂၅၆ | ၁၈၉၄ | ဇင်ပြွန်း ဦးသာဓိန |
| ၁၂၅၆ | ၁၈၉၄ | ဝန်းသို ဒုတိယ ခန္တီးဆရာတော် |
| ၁၂၅၆ | ၁၈၉၄ | နဲသမိန် ဦးကေသရ ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| | | နဲသမိန် ဆရာတော် ဦးဝိစာရ ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၅၇ | ၁၈၉၅ | စရေးအရှေ့ရွာ၊ ရဟန္တာ ကန်တွင်းကျောင်းဆရာတော် |
| ၁၂၅၇ | ၁၈၉၅ | ဝေဘူဆရာတော် ရဟန္တာအရှင်မြတ် |
| ၁၂၅၈ | ၁၈၉၆ | တောင်ပုလု ကမ္ဘာအေး ဆရာတော် |
| ၁၂၅၈ | ၁၈၉၆ | ကျပ်ကန် ဆရာတော် ဘဒ္ဒန္တနာရဒ ရဟန္တာအရှင်မြတ်ကြီး |
| ၁၂၅၈ | ၁၈၉၆ | နန်းတော်ကုန်းရွာ ဦးနန္ဒိယ |
| ၁၂၅၈ | ၁၈၉၆ | နွှာကုန်းကျေးရွာ ဦးသိရိန္ဒိရ |
| ၁၂၆၀ | ၁၈၉၈ | ပြည် ပထမ နန္ဒဝန် ဆရာတော် ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၆၁ | ၁၈၉၉ | မိုးကုတ်ဆရာတော် ဦးဝိမလ ရဟန္တာအရှင်မြတ်ကြီး |
| ၁၂၆၁ | ၁၈၉၉ | ရွှေဘိုကျောက်ဖြစ် ဆရာတော် အရှင်နရိန္ဒာဘိ (ရုပ်ကလာပ်တော် ရှိသေးသည်) |
| ၁၂၆၁ | ၁၈၉၉ | မုဒ္ဒော ဆရာတော် ဦးဉာဏဝံသ ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၆၁ | ၁၈၉၉ | ဗောင်းတော်ချုပ်ဆရာတော် |
| ၁၂၆၂ | ၁၉၀၀ | ရှမ်းကျောင်း ဦးနန္ဒိယ |
| ၁၂၆၃ | ၁၉၀၁ | စလင်းကန်လယ် ရဟန္တာအရှင်မြတ်ကြီး |
| ၁၂၆၆ | ၁၉၀၄ | မြန်အောင် နန္ဒဝန် ဆရာတော်ကြီး ဦးသာသနာ ရဟန္တာအရှင်မြတ်ကြီး |
| ၁၂၆၆ | ၁၉၀၄ | ဇလွန် မဒေး ဦးသုဇာတ ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၆၆ | ၁၉၀၄ | ဂူဖြူ ဦးသုစိတ္တ |
| ၁၂၆၆ | ၁၉၀၄ | မဟာစည် ဆရာတော် ဦးသောဘန ရဟန္တာအရှင်မြတ်ကြီး |
| ၁၂၆၆ | ၁၉၀၄ | ဦးအာစာရ |
| ၁၂၆၈ | ၁၉၀၆ | ပုသိမ်၊ သံပတ် ဦးအာစိဏ္ဏ |
| ၁၂၆၈ | ၁၉၀၆ | လှိုင်ကော် ရတနာသိဒ္ဓိတောင်တော် ဆရာတော် (ရုပ်ကလာပ်တော် ရှိသေးသည်) |

| | | |
|---|---|---|
| ၁၂၆၉ | ၁၉၀၇ | ကိုလုံဆရာတော် ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၆၉ | ၁၉၀၇ | ဦးသီဟ ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၇၀ | ၁၉၀၈ | သီပေါ၊ ဦးစန္ဒာဝရ ရဟန္တာအရှင်မြတ်ကြီး |
| ၁၂၇၀ | ၁၉၀၈ | တတိယ မိုးကုတ်ဆရာတော် ရဟန္တာအရှင်မြတ် |
| ၁၂၇၁ | ၁၉၀၉ | နှဲ့ကြီး ဆရာတော် ဦးစာရိတ္တာဘိဝံသ (ရုပ်ကလာပ်တော် ရှိသေးသည်) |
| ၁၂၇၂ | ၁၉၁၀ | တောင်တန်းသာသနာပြု ပရိတ်ရေဆူ ဆရာတော် ဦးဥတ္တမသာရ |
| ၁၂၇၃ | ၁၉၁၁ | လေးမျက်နှာ၊ ဦးဥက္ကဋ္ဌ ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၇၄ | ၁၉၁၂ | တေဝိဇ္ဇ ရဟန္တာ သဲအင်းဂူ ဦးဥက္ကဋ္ဌ |
| ၁၂၇၄ | ၁၉၁၂ | သာမည ဆရာတော် ဦးဝိနယ ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၇၆ | ၁၉၁၄ | နမ္မား ဆရာတော် ဦးဉာဏ ရဟန္တာအရှင်မြတ်ကြီး |
| ၁၂၇၆ | ၁၉၁၄ | ကွမ်းတော အရှင်ပညာသီရိ |
| ၁၂၇၆ | ၁၉၁၄ | ပင်ကုတ္တို ဦးပဏ္ဍာဝံသ ရဟန္တာအရှင်မြတ်ကြီး |
| ၁၂၇၇ | ၁၉၁၅ | မြေငူ ဦးကုသလ ရဟန္တာအရှင်မြတ်ကြီး |
| ၁၂၇၈ | ၁၉၁၆ | စစ်ကိုင်းဒီပါမြေ ဆရာတော် ( ရုပ်ကလာပ်တော် ရှိသေးသည် ) |
| ၁၂၈၀ | ၁၉၁၈ | မေဃဝတီ ဆရာတော်ဘုရားကြီး ဘဒ္ဒန္တရေဝတ |
| ၁၂၈၁ | ၁၈၁၉ | တောင်သာ ဦးကောဏ္ဍည |
| ၁၂၈၃ | ၁၉၂၁ | ညောင်ပင်အိုင် ဦးနန္ဒောဘာသ |
| ၁၂၈၃ | ၁၉၂၁ | နဘူးကျင်းဆရာတော် |
| ၁၂၈၃ | ၁၉၂၁ | မုံရွာ အမြင့်မြို့ ဦးနန္ဒသီရိ |
| ၁၂၈၇ | ၁၉၂၅ | ဆားတောင် ဦးပညာဏိက |
| ၁၂၉၀ | ၁၉၂၈ | ဝက်သကင်ဆရာတော် |
| ၁၃၀၄ | ၁၉၄၂ | မိုးယူ ဦးကန္တဝံသ ရဟန္တာအရှင်မြတ်ကြီး |

အထက်တွင် ဖော်ပြထားသည့် ရဟန္တာနှင့် ရဟန်းထူးများအနက် ယနေ့တိုင် ရုပ်ကလာပ်တော် မပျက်မစီး ကြွင်းကျန်တော်မူသော ဆရာတော်ကြီးများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

၁။ ဦးပညာ အမည်ရှိ ရဟန္တာ ဦးလိပ်
၂။ ပိန္နဲကွင်းဆရာတော် ဦးကလျာဏ (၁၈၂၅ - ၁၉၅၂ )
၃။ ဒုတိယ ပိန္နဲကွင်းဆရာတော်
၄။ တတိယ ပိန္နဲကွင်းဆရာတော်
၅။ ပုသိမ် မိဂဒါရုံ ဆရာတော် (၁၈၃၂ - ၁၉၂၁ )
၆။ စမ်းကျဆရာတော် (စံကြဆရာတော်) (၁၈၃၇-၁၉၃၃)

၇။ ထိမ်တောရွာမ ဆရာတော် (၁၈၃၈ - ၁၉၃၁)
၈။ မန်လည်ဆရာတော် (၁၈၄၁ - ၁၉၂၀)
၉။ ဂျိုးဂျိုးကျ ဆရာတော် (၁၈၅၃ - ၁၈၂၃)
၁၀။ မယ်ဒက် ဆရာတော် (၁၈၆၉ - ၁၉၄၃)
၁၁။ မြင်းခြံ ဇွန်းလွန်းဂူ ဆရာတော် (၁၈၇၇-၁၉၅၂ )
၁၂။ လက်ပံအိုင် ဆရာတော် ဦးစန္ဒ( ၁၈၈၂-၁၉၅၀)
၁၃။ ပထမ နဲသမိန် ဆရာတော် ဦးဝိစာရ
၁၄။ ဝန်းသို ဒုတိယ ခန္တီးဆရာတော် ( ၁၈၉၅ - ၁၉၈၆)
၁၅။ ဒုတိယ နဲသမိန် ဆရာတော် ဦးကေသရ (၁၈၉၅ - ၁၉၇၁)
၁၆။ နန်းတော်ကုန်းရွာ ဦးနန္ဒိယ ( ၁၈၉၆- ၁၉၈၂)
၁၇။ ပထမ ပြည်နန္ဒဝန် ဆရာတော် ( ၁၈၉၈- )
၁၈။ ရွှေဘိုကျောက်ဖြစ် ဆရာတော် အရှင်နရိန္ဒာဘိ ( ၁၈၉၉ - ၁၉၆၃)
၁၉။ ဇလွန်မဒေး ဆရာတော် ဦးသုဇာတ ( ၁၉၀၄- ၁၉၈၄)
၂၀။ ရတနာသိဒ္ဓိတောင် ဆရာတော် (၁၉၀၆-၁၉၉၁)
၂၁။ ဦးသီဟ ( ၁၉၀၇ - ၁၉၆၉)
၂၂။ ကုံလုံ ဆရာတော် ( ၁၉၀၇ - )
၂၃။ နှံကြီး ဦးစာရိတ္တာဘိဝံသ ( ၁၉၁၉ - ၁၉၉၃)
၂၄။ လေးမျက်နှာ ဆရာတော် ဦးဥတ္တမ (၁၉၁၂-၁၉၅၇)
၂၅။ သာမညတောင်ဆရာတော် ဦးဝိနယ (၁၉၁၂ - ၂၀၀၃)
၂၆။ စစ်ကိုင်း ဒီပါဓမြေ ဆရာတော် (၁၉၁၆ - ၁၉၈၅)
၂၇။ တောင်သာ ဦးကောဏ္ဍည (၁၉၁၉ - ၁၉၉၁)
၂၈။ မုံရွာ ချောင်းဦး အမြင့်မြို့ ဦးနန္ဒာသိရိ ( ၁၉၂၁ - ၂၀၀၄)

ဤစာပြုသူ၏ စာအုပ်ကြီးအတွက် တောင်တန်းသာသနာပြု ပရိတ်ရေဆူ ဆရာတော် မေတ္တာရှင်ကြီး ဦးဥတ္တမသာရ၏ လမ်းညွှန်မှုကို ယူခဲ့ပါသည်။ ဤစာအုပ်၏ အမည်ကိုလည်း ရဟန္တာနှင့် ရဟန်းထူးများဟူ၍ ပေးလိုက်ပါသည်။ ဤတွင် တောင်တန်းသာသနာပြု ဆရာတော်ကြီး ခန္ဓာဝန် မချခင်က ရေးသားချီးမြှင့်အပ်သောစာကို ယခု ဤစာပြုသူ၏ ရဟန္တာနှင့် ရဟန်းထူးများသမိုင်း ပေါင်းချုပ်ကြီး၏ လမ်းညွှန်မှု အမှာစာအဖြစ် ဂုဏ်ယူဖော်ပြအပ်ပါသည်။ တောင်တန်း သာသနာပြု ဆရာတော် အဘိဓဇအဂ္ဂမဟာ သဒ္ဓမ္မ ဇောတိက ဘဒ္ဒန္တဥတ္တမသာရ ကိုယ်တော်ကြီးသည် ရောက်ရာ အရပ်မှ ဝမ်းမြောက်ဝမ်းသာ သာဓုခေါ်နေလိမ့်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

## အဘိဓဇအဂ္ဂမဟာ သဒ္ဓမ္မဇောတိက တောင်တန်းသာသနာပြုဆရာတော် ဦးဥတ္တမသာရ၏ လမ်းညွှန်အမှာစာ မိန့်ခွန်းတော်

မြန်မာနိုင်ငံ၏ ဗုဒ္ဓသာသနာတော် အစဉ်ထွန်းကားလျက် ရှိနေပုံ ကြည်ညိုဝမ်းမြောက်ဖွယ်အများတွင် ရဟန္တာ ဓာတ်တော် တိုက်စေတီဟု ပေါ်ထွက်နေပုံက ရှေးကတည်း ရဟန္တာ ပုဂ္ဂိုလ်မြတ် တွေ ပေါ်များခဲ့ကြောင်းကို သမိုင်းဟောင်း နောက်ကြောင်းပြန်၍ အားရကြည်ညိုဖွယ်ရာကို ဖော်ပြနေခြင်းဖြစ်၏။

ထိုသို့ ကြည်ညိုအားရ ဝမ်းမြောက်ကြည်နူးဖွယ်ရာ အတိ ပြီးလျက်ရှိသော မြန်မာနိုင်ငံတော်ဖြစ်ကြောင်းကို အဆိုပါ ရဟန္တာ ဓာတ်တော် စေတီတွေ ပေါ်များလှပုံက ထင်ရှားသော သမိုင်း ကောင်းကို ရပ်တည်ပြနေကြပါသည်။

## မြန်မာပြည်၌ ရဟန္တာပုဂ္ဂိုလ်အမြဲရှိသည်

ငါတို့ မြန်မာနိုင်ငံ၌ ရဟန္တာပုဂ္ဂိုလ် ဘယ်အခါမှ မဆိတ် ပါဘူး ဟူ၍ ရှေးခေတ် ဆရာတော်ကြီးအချို့က ရဟန်း ပရိသတ် စာပေချပွဲရာတွင် ရံခါ အမိန့်ရှိခဲ့ဖူးကြောင်း ပြောစဉ်ရှိ၏။ အနု မာန ပညာစွမ်းဖြင့် သိမြင်တော်မူနိုင်၍ ပြောခြင်းဖြစ်ပါသည်။ ခေတ်အခြေအနေအရ ထိုမှ၍မှ ရဟန္တာ ပုဂ္ဂိုလ်ရှိကြောင်း သတင်း ကြားချက်လည်းပါဝင်မည်။

မြန်မာပြည်၌ ရဟန္တာပုဂ္ဂိုလ်မြတ်တွေ အမြဲတမ်းရှိနေ သည်ဟု သီဟိုဠ်ကျွန်းမြေပေါ်၌ သတင်းကောင်းကြီးတစ်ရပ် ဖြစ်နေ ကြောင်း၊ ထိုသတင်းကို ဝမ်းသာကြည်နူးစွာ အစဉ်ပြောဆိုလျက် ရှိကြောင်း၊ ကမ္ဘာလှည့် ခရီးသည် ဥရောပတိုက်သားများက မြန်မာ ပြည်ရောက်လာကြစဉ် ပြောပြသွားဖူးသည်ဆို၏။

ရှေးခေတ် မြန်မာဘုရင်တို့ လက်ထက်မှစ၍ ယနေ့ မျက်မှောက်ခေတ်တိုင်အောင် မြန်မာနိုင်ငံအတွင်းတွင် ရဟန္တာ ပုဂ္ဂိုလ်မြတ်တွေ တစ်ရာကျော် အမြဲရှိနေကြောင်း ရဟန္တာဖြစ်

အောင် ကျင့်ကြံအားထုတ်နေကြဆဲ သူတော်ကောင်း ပုဂ္ဂိုလ်မြတ်တို့လည်း (သုံးရာကျော်ထက်မနည်း)အမြဲ ရှိနေကြောင်း သီဟိုဠ်ကျွန်း၌ ပြောဆိုနေကြပုံ ကြားသိခဲ့ရသည်ဟု အီတာလျံ ဘုန်းတော်ကြီး ဦးလောကနာထကလည်း ပြောသွားဖူး၏။

အထက်ပါ နောက်ကြောင်း သမိုင်းများကို ထောက်ဆ၍ ကြည့်ကြလျှင် အဆိုပါသီဟိုဠ်မှ သတင်းစကားသည် မမှားကောင်း တန်ရာပါ။

## မြန်မာပြည်ထွက် ရဟန္တာပုဂ္ဂိုလ်များသမိုင်း

မြန်မာနိုင်ငံသည် ထူးခြား၍မြင့်မြတ်သော ဘူမိနက်သန်မြေဖြစ်သည်ဟု အဆိုရှိကြ၏။ မှန်ပါသည်။ ထူးခြားသော ဘူမိနက်သန်မြေ ဖြစ်သောကြောင့် ရှေးရှေးသောမင်းတို့၏ ခေတ်အဆက်ဆက်၌ ထူးခြားသော ပုဂ္ဂိုလ်တွေ သူတော်ကောင်းတွေ ရဟန္တာပုဂ္ဂိုလ်မြတ်ကြီးတွေ ထွက်ပေါ်ခဲ့ကြောင်း ထင်ရှား၏။ ထင်ရှားစွာ နေထိုင်သီတင်းသုံးသွားခဲ့ဖူး၏။

သို့ရာတွင် ထိုထို ရဟန္တာပုဂ္ဂိုလ်မြတ်ကြီးတို့၏ ထေရုပ္ပတ္တိသမိုင်းကို ဘွဲ့အမည် နေရပ် ကျင်လည်နေထိုင်သီတင်းသုံးပုံ စသောကြောင်းရာပြည့်စုံကို စုပေါင်းရေးသားထားသည့် ကျမ်းစာ မရှိသေးချေ။ ဤကား လိုအပ်ချက် ကွက်လပ်ဖြစ်သည်။

စုပေါင်းရေးသားထားခြင်းမရှိခဲ့၍ မိမိတို့ တိုင်းပြည်၌ သူတော်ကောင်း ရဟန္တာပုဂ္ဂိုလ်မြတ်တွေ ရှိခဲ့ကြကြောင်း ထင်လင်းစွာမသိကြရပါ။

မသိကြသောကြောင့် ထူးမြတ်သော ပုဂ္ဂိုလ်တို့၏ ကြည်ညိုဖွယ်ရာတွေ၊ ကျေနပ်အားရဖွယ်တွေ၊ အားကျပြီး အတုယူဖွယ်တွေကို မရနိုင်ဖြစ်ကြရသည်။

လူတို့၏ စိတ်သဘာဝကလည်း အတုမြင်မှ အတတ်သင်ချင် တတ်ကြမြဖြစ်သည် မဟုတ်လော။

တစ်ချိန် တစ်ချိန်တွင် ထူးမြတ်သော ပုဂ္ဂိုလ်တို့၏ အကြောင်းကို နီးစပ်သူ တပည့်ရဟန်းနှင့် လူဒကာတို့က ထေရုပ္ပတ္တိစာအုပ်ငယ်များရေးသား ထုတ်ဝေလေ့ရှိကြဖူး၏။ ဆရာတော်တစ်ပါး၏ အကြောင်း၊ နှစ်ပါး၏ အကြောင်းမျှသာ ဖြစ်ကြ၏။ ထိုစာအုပ်ကိုလည်း မြန်မာပြည်၏ လူဦးရေအများထဲမှ လူအနည်းငယ်လောက်သာ တွေ့ဖူးဖတ်ဖူးကြ၏။ တိုင်းသိ ပြည်သိ မဟုတ်ပါ။

ယင်းသို့ နည်းပါးလှသော စာအုပ်များတွင်လည်း အချို့သော ထေရုပ္ပတ္တိစာအုပ်ငယ်တို့မှာ ရေးသားပုံမရှင်း၍ စာဖတ်ရသူစိတ်မဝင်စားကြပါ။ စိတ်မဝင်စားကြသောကြောင့် မထင်မရှားနှင့်

ပျောက်ကွယ်သွားလေ့ရှိကြသည်။ ဤသည်လည်း ခရီးမရောက်၍ အကျိုးမဖြစ်ထွန်းခြင်းတည်း။

မကြာသေးမီက နှစ်များတွင်မူ ဓမ္မာစရိယ ဦးဌေးလှိုင်က ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများအမည်ဖြင့် စာအုပ်ထူထူကြီးကို ရေးသားထုတ်လိုက်ရာမှာ ရဟန်းရှင်လူအများ ဝမ်းသာအားရဖြစ်ကြရ၏။

တိုင်းပြည်နှင့်လူမျိုး၊ ရဟန်းရှင်လူအားလုံးအတွက် အလွန်ကျေးဇူးများလှဘိသည်။ ရေးသားထုတ်ဝေသော ပုဂ္ဂိုလ်အား ဗုဒ္ဓဘာသာဝင် ရဟန်းရှင်လူအများက ကျေးဇူးတင်၍ မဆုံးနိုင်ရှိကြသည်။ ထိုစာအုပ်ကို လူကြိုက်များလှ၍ အကြိမ်ကြိမ် ထုတ်ဝေရကြောင်း သတင်းကောင်းလည်းကြားသိရ၏။ ဤကား သူတစ်ပါး အကျိုးဆောင်၍ ကိုယ်ကျိုးရှိခြင်းဖြစ်သည်။

## ဖြည့်ရန် လိုသေးသည်

သို့ရာတွင် ထိုစာအုပ်ဖြင့် မြန်မာပြည်အတွက် မပြည့်စုံသေးပါ။ ဖြည့်သွားရန် များစွာလိုသေး၏။

မြန်မာပြည်အတွင်း၌ ရဟန္တာပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တွေ အများရှိခဲ့ဖူးသကဲ့သို့ အကျင့်ကောင်း အနေကောင်း ပါရမီရှင်ပုဂ္ဂိုလ်မြတ်တွေလည်း တိုင်းပြည်နှင့်အဝန်း အများအပြားရှိခဲ့ကြဖူး၏။

ထိုထိုသူတော်ကောင်း ပါရမီရှင် ပုဂ္ဂိုလ်မြတ် သူတော်ကောင်းတွေ ရှေးလွန်ပြီးအချိန်၌ ရှိခဲ့ကြဖူး၏။ ယခု မျက်မှောက်ခေတ် အချိန်၌လည်း ရှိနေကြဆဲ၊ ရှိနေကြလျက်ပင်။ နောင်အနာဂတ်ကာလ၌လည်း အဆက်မပြတ်ရှိနေကြဦးမည်သာတည်း။

ရဟန္တာဖြစ်သွားကြပြီးနောက် ပရိနိဗ္ဗာန် စံယူတော်မူသွားကြလေပြီးသော ပုဂ္ဂိုလ်မြတ်တွေသမိုင်းကို အတော်များများ ပါဝင်အောင် ခြုံငုံမိခြင်းမရှိသေးပါ။

မိမိတို့ တိုင်းပြည်မှ ရဟန်းရှင်လူတို့က တကယ်သိသင့်သိထိုက်သော သူတော်ကောင်း စင်စစ်ကြီးတွေ မထင်မရှားနေလျက် ရှိကြပါသေးသည်။

လူလောကအတွင်း လူမြင်ခံသွားလာလှုပ်ရှားနေမြဲနေကြသော သူတော်ကောင်းပုဂ္ဂိုလ်တွေ ရှိကြသကဲ့သို့ လူသိမခံလိုသော သူတော်ကောင်း ပုဂ္ဂိုလ်တွေလည်းရှိကြ၏။

ပုဂ္ဂိုလ်အချို့မှာ ပဓာနအလုပ်ဖြင့် အဆင့်မြင့်နေပြီဖြစ်သော်လည်း လူ့လောကအတွင်း၌ပင် သာမန်လူတို့ကဲ့သို့ မထင်မရှားနေကြဆဲ ပုဂ္ဂိုလ်မြတ်တွေလည်း ရှိကြသည်။

အချို့သော သူတော်စင် ပုဂ္ဂိုလ်တို့က လူ့လောကအတွင်း၌ မနေလိုငြီးငွေ့ကြသည်။ ခေတ်အလိုက် ပတ်ဝန်းကျင် လူ့လောကကို ငြီးငွေ့၍ အပေါင်းအဖော်ကိုရှောင်ကာ မထင်မရှား သင့်တော်ရာ၌ ချောင်ခို၍ သင့်တော်ရာ၌ တောခို၍ သင့်တော်ရာ၌ တောင်ခို၍ ဂူချောင်အောင်း၍နေကြသော ပုဂ္ဂိုလ်မြတ်တွေ ယခု မျက်မှောက်ခေတ်၌ ရှိနေကြသည်။

ဤအရှင် တစ်ဆင့်စကား ကြားသိရဖူးသည်ပင် များစွာရှိ၏။ ပြည့်စုံနိုင်သမျှ ပြည့်စုံအောင် တဖြည်းဖြည်း ရှာဖွေစုဆောင်း၍ ရေးသားထုတ်ဖော်ကြရပေဦးမည်။

## ရေးနည်းပြောမည်

သူတော်ကောင်း ပုဂ္ဂိုလ်မြတ်များအကြောင်းကို ထုတ်ဖော်ရာမှာ ရေးနည်းကို ပြောပါမည်။

ရေးပုံ ရေးနည်း စကားပြေပြစ်ရမည်။ ရှင်းရမည်။ ဖတ်သူ နားလည် ရမည်။ စကားဆန်း မသုံးရ။ သိမ်ဖျင်းသော စကားမျိုး မပါစေရန်၊ အကွန့်တွေ ရှောင်ရမည်။ နဘေ ကာရန်နှင့် ရေးနည်း အားမကျရ၊ အတုမယူရ၊ ပါသင့်သော ဂီတ ကဗျာ လင်္ကာ တစ်ပုဒ်စ နှစ်ပုဒ်စ သင့်တော်သော်လည်း ထေရုပ္ပတ္တိ တစ်ခုလုံးကို ကဗျာ လင်္ကာတွေ မလွှမ်းမိုးစေသင့်ပါ။ ထပ်ပြန်တလဲလဲ မညှပ်သင့်ပါ။

စာဖတ်ပရိသတ်က ထေရုပ္ပတ္တိ ဖြစ်စဉ်ရိုးရိုးကိုသာ ဖတ်ချင်ကြသည်။ ကဗျာလင်္ကာတွေ မဖတ်ချင်ကြပါ။ လက်စွမ်းပြချင်လျှင် သီးသန့် ကဗျာစာအုပ် ရေးနိုင်သည်။

ကဗျာ လင်္ကာတွေ လွန်အောင်ညှပ်သွင်း၍ ရေးထားသော ပုဂ္ဂိုလ်ထူးတစ်ပါး၏ ထေရုပ္ပတ္တိဖတ်ရတာ ဘာကိုဖမ်းရမှန်း မသိကြောင်း၊ အုန်းဆွမ်းကောင်းကောင်း စားချင်လို့ စားနေရင်း ဆွမ်းထဲက စပါးလုံးတွေ ကျောက်ခဲတွေ ထုတ်ပစ်နေရသလို စာဖတ်ရတာ ကဗျာ လင်္ကာတွေက အနှောင့်အယှက် ဖြစ်ရကြောင်း ဤအရှင်ကို လျှောက်သွားကြဖူး၏။

စာဖတ် ပရိသတ်က ရိုးရိုးရှင်းရှင်း ရေးသော စာအုပ်ကိုသာ ဖတ်ချင်ကြသည်။ ကာရန်တွေ၊ နဘေထပ်တွေနှင့် ရေးကြပုံကို မကြိုက်ကြပါ။

လိုရင်းဘာဝ ဖြစ်စဉ်ကြောင်းရာထက် အပိုတွေ ချဲ့လွန်ခြင်း၊ ကွန့်လွန်းခြင်း၊ အမွှမ်းတွေ များလွန်ခြင်း၊ ဥပမာ ဥပမေယျတွေ ပါသင့်သည်ထက် ပိုလွန်ခြင်း စသော ရေးနည်းမျိုးကို ရှောင်ရမည်။

မိမိရေးလိုသော ပုဂ္ဂိုလ်မြတ်၏ တကယ်အတုယူဖွယ်ကို

လိုရင်းရောက်အောင် ရေးပြတတ်ရမည်။ ကျင့်ကြံပုံ၊ နေထိုင်ပုံ၊ ခြိုးခြံပုံ၊ ရောင့်ရဲ လွယ်ပုံ၊ သည်းခံ တတ်ပုံ၊ ဟန်ပန်မမက်ပုံ၊ ပကာသန မလိုက်ပုံ၊ ရှုပ်ထွေးသော လူ့လောကကြီးငွေ့၍ ဆိတ်ငြိမ်ရာ ရှောင်ထွက်နေတတ်ပုံ၊ ပင်ကိုသဘာဝ အမြော်အမြင်ကြီးပုံ၊ တပည့်ဒကာတို့အား အချိုးကျကျဆိုဆုံးမပုံ စသည်ကို ဖြစ်နိုင်လျှင် အချိန်နှင့် နေရပ်ဒေသကိုပါတွဲ၍ ရေးပြရမည်။

လိုရင်းအချုပ်မှာ ရေးသူ၏ လက်လှမ်းမီသမျှ လက်တွေ့ထိရောက်သော အကျင့်တရားပိုင်းကို ဘေးမှမြင်နိုင်သော သူ၏ တရား အသိအမြင် အစွမ်းထက်ခဲ့ဖူးပုံ စသော အခြင်းအရာမျိုးကို စာဖတ်ပရိသတ်က သိချင်ကြသည်။ ကြည်ညိုချင်ကြသည်။ ဤအခြင်းအရာကို ထိမိအောင် ရေးပြတတ်ရသည်။

ထိုပုဂ္ဂိုလ်မြတ်၏ လုပ်ဆောင်ချက်အပိုင်းတွင် ပကတိ မှုမှန်စေတနာကောင်း ဘယ်ပုံထားလေ့ရှိကြောင်း စိတ်သန္တာန်၏ သဘာဝ မြင်ကွင်းကို ပုဂ္ဂိုလ်စွဲမထား၊ ဘက်မလိုက်။ စာရေးသော ပုဂ္ဂိုလ်က ဣန္ဒြေရရ ရိုးရိုးတည်တည်နှင့် ကြည်ညိုဖွယ် အတုယူဖွယ်ဖြစ်ရပ်များကိုသာ မိမိစွမ်းနိုင်သမျှ ပြည့်စုံအောင် ရေးသားကြရပါသည်။

ရေးသားထုတ်ဝေကြရန် အကြံပေးတိုက်တွန်းလိုပါသည်။ ဤကား သူတော်ကောင်းပုဂ္ဂိုလ်မြတ်တို့အကြောင်း ဘဝသမိုင်းကောင်းဖြစ်အောင်ရေးနည်းကို သင်ပြခြင်းပါတည်း။

တစ်နေ့နေ့ တစ်ချိန်ချိန်တွင် ဤမြန်မာပြည်တွင်းရှိ အမှန်ဖြစ်ခဲ့ပြီး ဖြစ်နေဆဲ ဖြစ်လတ္တံ့သော သူတော်ကောင်း ရဟန်းပုဂ္ဂိုလ်မြတ်တို့၏ ထေရုပ္ပတ္တိကောင်းတွေ၊ သူမြတ်သူတော်ကောင်းတို့၏ ဇနုပ္ပတ္တိကောင်းတွေ ရှာဖွေစုဆောင်း၍ ပေါင်းချုပ်စွမ်းနိုင်ရမည်။ **အဆိုပါဖြစ်ရပ်ကောင်း ပေါင်းချုပ်စာအုပ်ထုထုကြီး တစ်ဆူသော ဖြစ်ပေါ်လာကောင်းပါသည်ဟု ဤအရှင်ယုံကြည်စွာ မျှော်လင့်မိပါသတည်း။ အောင်မြင်စေရမည်။**

နတ် လူ သတ္တဝါ အားလုံး ကိုယ်စိတ်နှစ်ဖြာ ချမ်းသာကြပါစေ။

**ဆရာတော် ဦးဥတ္တမသာရ၊**
**၁၃၄၇ ခု၊ ပထမဝါဆိုလပြည့်ကျော် ၈ ရက်၊ ဗုဒ္ဓဟူးနေ့**
**ခန္တီတောင်တောရ၊ ဖလမ်းနယ်၊ ချင်းတောင်။**

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊
ဓမ္မဒူတ သာသနာ့ဝံသကထာ စာ ၃၅၃ - ၃၅၈ )

# ကျေးဇူးစကားဆိုခြင်း

ရှေးဦးပထမအားဖြင့် မိခင် ဖခင် ကျေးဇူးရှင်တို့ကို ဦးထိပ်ပန်ဆင်၍ ကျေးဇူးစကား ဆိုအပ်ပါသည်။ ၎င်းနောက် -

ဤစာပြုသူသည် ဤစာကို ရေးသားရာတွင် ဤသို့ ရေးနိုင်အောင် အစစအရာရာကို ထောက်ပံ့ပေးခဲ့သော ကျေးဇူးရှင်အဂ္ဂမဟာသီရိသုဓမ္မ မဏိဇောတဓရ၊ လူမှုထူးချွန် (ပထမဆင့်)ရ စီးပွားရေးပါရဂူဘွဲ့ နှစ်ထပ်ကွမ်းရ ဇေကမ္ဘာကုမ္ပဏီ ဥက္ကဋ္ဌ ဒေါက်တာခင်ရွှေနှင့် ဇနီးဖြစ်သူ သီရိသုဓမ္မသိင်္ဂီ သာသနာပြု ဘွဲ့တံဆိပ်တော်ရ ဒေါ်စန်းစန်းကြွယ်နှင့်တကွ သားဖြစ်သူ ကိုဇေသီဟ၊ (ကရဝိက်နန်းတော်၊ ဒါရိုက်တာ) သမီးဖြစ်သူ မဇေဇင်လတ် (ကန်တော်ကြီး ဖုံ (၄) ကရဝိက်ပန်းဥယျာဉ်ဒါရိုက်တာ)တို့ကို ဦးစွာပထမ ကျေးဇူးစကားဆိုပါသည်။

ဤစာပြုစုနေစဉ်အတွင်း ဤစာမူကြီးပြီးအောင် နေ့စဉ်နှင့်အမျှ ဂရုစိုက်ကူညီ မွမ်းမံပေးသော ရန်ကုန်မြို့ ဗိုလ်တထောင်မြို့နယ်၊ လမ်း ၅၀ ၊ အမှတ် ၁၉၉ ၊ အဲဗားဂရင်း ပုံနှိပ်တိုက်မှ ဦးကျော်စန်းလင်းနှင့် ညီဖြစ်သူ ဦးသိန်းဦးတို့ကိုလည်း ကျေးဇူးစကားဆိုပါသည်။ ၎င်းအပြင် စိတ်ရှည်သည်းခံ ဇွဲသန်သန်ဖြင့် စာမူကို စနစ်တကျ သေသပ်လှပစွာ ရိုက်နှိပ်ပေးအပ်သော ကွန်ပျူတာစာစီပေးသော မသင်းသင်းကိုလည်းကောင်း၊ စနစ်တကျ မွမ်းမံပြင်ဆင် အလှဆင်ပေးသော မောင်ဟိန်းမင်းဇော်(တော်ဝင်မြို့မ)အားလည်းကောင်း ကျေးဇူးစကားဆိုပါသည်။

၎င်းအပြင် ဤစာအုပ်ကို အမည်မှည့်ရာတွင် တောင်တန်းသာသနာပြု ဆရာတော်ဘုရားကြီး၏ မိန့်ခွန်းတော်အတိုင်း ဖြစ်စေချင်သည်သာမက ပါရမီလမ်းကြောင်း၏ အထောက်အကူ ဘွဲ့ယူ စာတမ်းကြီးအဖြစ် ဖြစ်စေချင်သောဆန္ဒဖြင့် ဤစာအုပ်၏အမည်ကို ရဟန္တာနှင့်ရဟန်းထူးများ သမိုင်းပေါင်းချုပ်ကြီးဟု ပေးလျှင်ဖြင့် အလွန်ကောင်းပါမည်ဟု အကြံပြုသော မိတ္ထီလာခရိုင် မလှိုင်မြို့နယ်၊ စေတော်ဝင် သာသနာပြုစခန်းကြီး၏ ဦးစီးပဓာန ရှေးဦးပထမ နာယက အဂ္ဂမဟာ သဒ္ဓမ္မဇောတိက ဘဒ္ဒန္တ ဇေယျသိဒ္ဓိ ဓမ္မညာဏိက အလောင်းတော်မြတ်ကြီး၏ ညာလက်ရုံးကြီးတစ်ဆူဖြစ်ပေသော မဟာဂန္ဓာရီ လမ်းတစ်လျှောက်မှာ လမ်းပေါက်အောင် လျှောက်နေသော ဓမ္မမိတ်ဆွေကြီး မြေလတ်မြတ်သူအားလည်းကောင်း၊ ဘဝကိုအရှင်ကူးသော ကျေးဇူးရှင်ကြီးများအား ရုပ်ရှင်ပညာဖြင့်ပူဇော်လို၍ မော်ကွန်းတင်ရုံမက စာပေဖြင့်လည်း သာသနာပြုနေသော ဓမ္မမိတ်ဆွေကြီး စိုးဟိန်း(မန်းတက္ကသိုလ်)အားလည်းကောင်း ကျေးဇူးစကားဆိုပါသည်။

ဤကျမ်းပါ အချက်အလက်များကို စိတ်ရှည် လက်ရှည် ဖတ်ရှုလျက် ထည့်သွင်းဖော်ပြသော အချစ်ဂျာနယ် ဝိုင်းတော်သား အပေါင်းတို့၏ ဂုဏ်ကျေးဇူးကိုလည်း ကျေးဇူးစကားဆိုပါသည်။

ဤကျမ်းကြီးကို ပြုစုပြီးနောက် စာအုပ်အခက်အခဲ၊ ထုတ်ဝေမှုအခက်အခဲများ ကြားဝယ် စာအုပ်ထုတ်ဝေမှု နှောင့်နှေးလျက် ငြိမ်သက်နေစဉ်တွင် ကဗျာဆရာကြီးတစ်ဦးဖြစ်သူ မောင်စိမ်းနီ ဆိုသူသည် တစ်နေ့သောအခါ ရုတ်တရက်ပေါက်လာပြီးလျှင် သဒ္ဓါပေါက်လျက် ဓမ္မမိတ်ဆွေ ထုတ်ဝေသူ တစ်ဦးကို လုံ့လစိုက်ထုတ်ရှာဖွေပေးခဲ့သဖြင့် ဤရဟန္တာနှင့်ရဟန်းထူးများ ကျမ်းစာကြီးသည် ပေါ်ပေါက်လာရပေသောကြောင့် သူ့ပါရမီကို သူဟာသူမသိဘဲ အမှတ်တမဲ့နေခဲ့သော ပါရမီရှင် မောင်စိမ်းနီ၏ အမှတ်မမဲ့မှုကိုလည်း ကျေးဇူးစကားဆိုရပါ၏။

ထိုမျှသာမကသေး။ ဤကျမ်းစာကို မဖြစ်မနေ ထုတ်ဝေမည်ဟု ဇောထက်သန်လျက် စိတ်အား ထက်သန်စွာ ပြောကြားသည်သာမက ထေရဝါဒဗုဒ္ဓသာသနာတော်ကြီး၏ ကောင်းခြင်းအဖြာဖြာ

ပြည့်စုံမှုကိုလည်းကောင်း၊ မြန်မာနိုင်ငံတော်ကြီးသည် မည်သည့်အခါကာလကမှ ရဟန္တာနှင့်ရဟန်းထူးများ ဆိတ်သုဉ်းခဲ့ခြင်း မရှိကြောင်းကို သက်သေပြရလျှင် လူဖြစ်ရကျိုးနပ်ပါမည်ဟု ဤစာအုပ်ထူထူကြီးကို အကောင်းစား ထုတ်ဝေမည်ဟု အကြိမ်ကြိမ်ပြောဆိုခဲ့သော တော်ဝင်မြို့မစာအုပ်တိုက်မှ ကိုမိုး(ကိုလှိုင်ဝင်းမိုး) ကိုလည်း မမေ့မလျော့ ကျေးဇူးစကားဆိုပါ၏။

ဤကျမ်းစာကို ပြုစုနေစဉ် ကာလဝယ် မိမိအိမ်၏အိမ်မှုတာဝန်ကို ကျေပွန်စွာ ထမ်းဆောင်လျက် ပါရမီအထောက်အကူပြုပေးသော ဤစာပြုသူ၏ဇနီးဖြစ်သူ မဝါဝါ(ခေါ်)မနိုင်ရီရီနှင့် သားဖြစ်သူ မောင်သက်လှိုင်မွေးတို့၏ အားပေးကူညီမှုတို့ကိုလည်း ဤစာပြုသူက မမေ့မလျော့ ကျေးဇူးစကား ဆိုလိုက်ပါ၏။

ဤရွှေ့ဤမျှ ကြံ့တောင့်ကြံ့ခဲ သာသနာကြီးတွင် ရေးနိုင်ခွင့်ရရန် အလွန်ခက်ခဲသည့်အလျောက် လူပြည်သက်တမ်းအတိုင်းအတာနှင့်နှိုင်းစာလျှင် အလွန်ကြီးမားနက်ရှိုင်းပေသော ဤကျမ်းစာကြီးကို ပြုစုရသော ကောင်းမှုအစုစု တို့ကြောင့် အကျွန်ုပ်သည် မိမိတောင်းအပ်သော ဆုများနှင့်အညီ ကျွတ်လမ်း လွတ်လမ်း ဝင်နိုင်ပါစေ သတည်း။ ဤကျမ်းစာထူး၊ ကျမ်းစာမြတ်ကြီးကို ပြုစုပူဇော်ခဲ့ပါ၏။ ဤသစ္စာစကားသည် မှန်ကန်ပါက၊ ဤမှန်သောသစ္စာစကားကြောင့်၊ ဤသစ္စာ၏ တန်ခိုးတေဇော် အာနုဘော်တို့ကြောင့်-

အကျွန်ုပ်သည်လည်း တေဇသိဒ္ဓိ၊ ဇေယျသိဒ္ဓိ၊ ဗလသိဒ္ဓိ၊ ကာယသိဒ္ဓိ၊ ဝီယသိဒ္ဓိ၊ ဓနသိဒ္ဓိ၊ ဥဒကသိဒ္ဓိ၊ ပထဝီသိဒ္ဓိ၊ အာကာသသိဒ္ဓိ၊ အာရောဂျသိဒ္ဓိ၊ အာဟာရသိဒ္ဓိ၊ ဇလသိဒ္ဓိ၊ မနောမယသိဒ္ဓိ၊ စိန္တာမယသိဒ္ဓိ၊ အာယုသိဒ္ဓိ၊ သိဒ္ဓိအပေါင်း၊ ရံခြောင်း၍၊ တစ်သောင်းဇမ္ဗူဒီပါ မြေမျက်နှာဝယ်၊ ကောင်းကျိုးချမ်းသာ၊ မင်္ဂလာကျက်သရေ၊ တိုးတက်ဖွံ့ဖြိုးအောင်၊ ဆောင်ရွက် နိုင်ပါစေသတည်း။ သိဒ္ဓိအပေါင်း၊ ထောင်သောင်းကြေညာ၊ တေဇာလင်း၍၊ အောင်ခြင်းကြီး အောင်ပါစေသတည်း။

ရဝိစန္ဒြ၊ သောမ ဗုဒ္ဓေါ၊ ဂုရု နှောလျက်၊ သုက္ကော သောရီ၊ တစ်လီ ရာဟု၊ ရှစ်ခုသော ဂြိုဟ်၊ ဝင်လို့ခို၊ အလိုရှိတိုင်း ပြည့်စေသော်ဝ်။ ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော၊ လေးပါးသော ဓာတ်၊ လေးပါးနတ်၊ မပြတ်ချဉ်း၍ ကပ်စေသော်ဝ်၊ ပဉ္စက္ခန္ဓော၊ ရူပက္ခန္ဓော၊ ဝေဒနက္ခန္ဓော၊ သညက္ခန္ဓော၊ သင်္ခါရက္ခန္ဓော၊ ဝိညာဏက္ခန္ဓော၊ ခန္ဓာငါးရပ် ကိန်းစေသော်ဝ်၊

## မောင်ပန်းမွေး

ဝိဇ္ဇာအထွေထွေဂုဏ်ထူး၊ မဟာဝိဇ္ဇာ(အမှတ်စဉ်အလိုက် ပထမ)ဂုဏ်ထူး၊
ဇေကမ္ဘာ ကုမ္ပဏီလီမိတက်၊ ကရဝိက်နန်းတော်၊ အထွေထွေမန်နေဂျာ
ကဗျာဆရာ၊ စာရေးဆရာ၊ သာသနာ့အကျိုးတော်ဆောင်၊ ကျမ်းပြုဆရာ
အချစ်ဂျာနယ်၊ နာယက ထုတ်ဝေသူ
ဝိဇ္ဇာမဂ္ဂဇင်း၊ အယ်ဒီတာချုပ်
ဓမ္မသာလာ မဂ္ဂဇင်း၊ မဟာနာယက
ယခင် ရန်ကုန်တက္ကသိုလ် မြန်မာစာဌာန၊ မြန်မာစာဆရာ
ယခင် ပုသိမ်ကောလိပ်၊ မြန်မာစာဌာန မြန်မာစာဆရာ
ယခင် ပညာရေးတက္ကသိုလ်၊ မြန်မာစာဌာန မြန်မာစာဆရာ
ယခင် စစ်တွေ ကောလိပ်၊ မြန်မာစာဌာန မြန်မာစာဆရာ

ကောင်းကင်မှာ စျာန်ပျံ၍ တရားပြသွားသော စျာန်အဘိညာဉ်ရ ရဟန္တာမထေရ်မြတ်

# ကင်းတောရ ဆရာတော် အရှင်ခေမာ





၁၈၊ မတ်လ၊ ၁၉၅၅ ခု (၁၃၁၆ ခု၊ တပေါင်းလဆုတ် ၁၀ ရက်) သောကြာနေ့တွင် သက်တော် ၈၆ နှစ် ဝါတော် ၆၆ ဝါ အရတွင် ပျံလွန်တော်မူသော မူလ မင်းကွန်းဆရာတော် အရှင်နာရဒ (သထုံ ဇေတဝန်ဆရာတော်)ကြီးကို မီးသဂြိုဟ်ရာ ခန္ဓာတော်အရပ်ရပ်မှ ကြွင်းကျန်ခဲ့သော ဓာတ်တော်များမှာ ၃- ကွမ်းစား ၃- ပြည်မျှ ပမာဏရှိမည်ဟု ခန့်မှန်းကြပါသည်။

ထို့ကြောင့်ပင်လျှင် ထိုအရှင်မြတ်ကြီး၏ ဂုဏ်သတင်းသည် မြန်မာပြည်နယ်နိမိတ်ကိုကျော်၍ သာသနာ့ဂုဏ်ရောင်ထွန်းပြောင်ခဲ့ပေသည်။ ထိုမူလ မင်းကွန်းဆရာတော် အရှင်နာရဒကိုယ်တော်မြတ်ကြီး၏ လမ်းညွှန်နည်းပြ ဆရာစဉ်ဆက်ကို လေ့လာရာ သီးလုံးဆရာတော်ဘုရားကြီးမှ တပည့်စဉ်ဆက် ဆက်နွယ်လာကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ သို့နှင့် ဆရာစဉ်ဆက်ကိုရှာဖွေရာ ဆရာမြတ်သစ် တည်းဖြတ်ပြီး အယ်ဒီတာပြုလုပ်ခဲ့သော ဒဂုန်မဂ္ဂဇင်း အသစ်ထဲတွင် မိုးကြိုး ဦးအုန်းခင်၏ ဆောင်းပါးတစ်ပုဒ်ကို မှတ်မှတ်ရရ စုဆောင်းခဲ့ဖူးပါသည်။ ယခုအခါ ရှာမတွေ့၍ ရှာပြန်ရာ စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာ ဆရာတော် အရှင်ပဏ္ဍိတမထေရ် စီရင်ရေးသားအပ်သော ရွှေကျင်နိကာယ သာသနာဝင် အကျဉ်းနှင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဩဝါဒကထာများ စာအုပ် ၁၉၈၈ ခုနှစ်ထုတ်ကို တွေ့ရှိ၍ လှန်လှောရှာဖွေရာ စာမျက်နှာ ၇၉ တွင် ရွှေဘိုသာသနာဝင် အကျယ်ဟူ၍ တွေ့ရပေသည်။)

ကင်းတောရဆရာတော်၊ သီးလုံးဆရာတော်၊ အလယ်တောရဆရာတော် ဤဆရာတော်ကြီး သုံးပါးသည် နာရဒတွင်မည် ငါမထေရ်အား ပဋိပတ်လမ်းစ ကျင့်နည်းရအောင် ညွှန်ပြခဲ့ကြောင်း မင်းကွန်းမူလ ဇေတဝန်ဆရာတော်ကြီးကိုယ်တိုင် ညွှန်ပြတော်မူခဲ့လေသည်ဟုသိရပါသည်။

(ကျမ်းကိုး။ တောင်တွင်း ဘိက္ခုအရှင်သိက္ခာစာရ မူလ မင်းကွန်းဇေတဝန် ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ၊ ဒုတိယအကြိမ်၊ ၁၉၉၂ ခု၊ ဩဂုတ်လ ဟံသာဝတီ စာအုပ်တိုက် စာ ၁၃၁)

သီးလုံးဆရာတော်နှင့် ကင်းတောရဆရာတော် အရှင်ခေမာတို့သည် ဈာန်အဘိညာဉ်ရ ရဟန္တာပုဂ္ဂိုလ်မြတ်များဖြစ်သည်ဟု ကြည်ညိုရင်းရှိသဖြင့် ဆက်လက်ဖတ်ရှုရာ ပိုမိုကြည်ညိုရပါသည်။

အကြောင်းမူကား အခါတစ်ပါး ရှိမ်းမကားမြို့၌ သိမ်သမုတ်ရန် ကိစ္စအတွက် စစ်ကိုင်း, မင်းကွန်း, မန္တလေး စသော မြို့ရွာတို့မှ ထင်ရှားသော ဆရာတော်များ ကြွလာကြရာ သီးလုံးဆရာတော်လည်း ကြွလာတော်မူသည်ဖြစ်၍ အများကပင် သီးလုံးဆရာတော် တရားချီးမြှင့်ရန် လျှောက်ထားတောင်းပန်ကြရာ သီးလုံးဆရာတော်က ဟောရန် ပဋိညာဉ် ပြုလုပ်ပြီးနောက် တရားမဟောမီ စကားပလ္လင်အနေ မိန့်တော်မူသည်မှာ တရားဟောရမည်ဆိုလျှင် မိမိသဘောကျ အားထုတ်နေကျ နှလုံးသွင်းလျက်ရှိသော တရားကိုသာလျှင်ဟောမည်ဟု မိန့်ကာ အနာဂါမိဖိုလ်တိုင်အောင် ဝိပဿနာ ရှုပုံ, ဉာဏ်ဖြစ်ပုံ, မဂ်ဖိုလ်ဆိုက်ရောက်ပုံ ဖလသမာပတ် ဝင်စားပုံတို့ကိုပါ ဟောတော်မူသည်။

(ကျမ်းကိုး။ရွှေဟင်္သာဆရာတော်ကြီး အရှင်ပဏ္ဍိတမထေရ်မြတ်က မှတ်တမ်းတင်ထားပါသည်။)

ကင်းတောရ ဆရာတော် ဦးခေမာ၏ ထေရုပ္ပတ္တိကို ရှာဖွေရာ စေ့စုံစွာမရရှိနိုင်ဖြစ်နေပါသည်။ သီးလုံးဆရာတော်နှင့် ကင်းတောရဆရာတော်တို့၏ ဆက်နွယ်မှု ဇာတ်ကြောင်းကိုသာ ရှာဖွေတွေ့ရှိရပါသည်။ ထိုဖြစ်ရပ်မှန်အရလည်း ကင်းတောရဆရာတော်သည် ဈာန်အဘိညာဉ်ရ ရဟန္တာမြတ်ကြီး ဖြစ်ကြောင်း ထင်ရှားလှပါသည်။ ဖြစ်ရပ်မှန်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

သီးလုံးဆရာတော်နှင့် ဆရာတူတပည့် သမာနာစရိယဖြစ်သော အရှင်ခေမာသည်



စာပေတတ်မြောက်အောင်သင်ကြားပြီးနောက် တောရကျောင်း၌သာ အမြဲနေ၍ ရဟန်းတရားတော်ကို ထက်ထက်သန်သန် အားထုတ်လေ့ရှိသည်။ ရံခါရံခါ သီးလုံးဆရာတော်ထံသို့လာ၍ တရားစကား ဆွေးနွေးတတ်၏။ သီးလုံးဆရာတော် တောထွက်၍ တရားအားထုတ်ရန်လည်း မကြာခဏ တိုက်တွန်းလေ့ရှိ၏။ ရှင်ခေမာ တိုက်တွန်းသောကြောင့်လည်း သီးလုံးဆရာတော် တောရဆောက်တည်ဖြစ်ပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀)

အရှင်ခေမာသည် ကင်းတောရမှ သီးလုံးဆရာတော်ထံသို့ နေ့ချင်းပြန်အားဖြင့် တစ်လ ၂ ကြိမ် ၃ ကြိမ် လာ၍ တရားစကား ဆွေးနွေးလေ့ရှိရာ တစ်နေ့သောအခါ အချေအတင် တော်တော်ကလေး ဆွေးနွေးပြီးနောက် အရှင်ခေမာ ပြန်ကြွသောအခါ သီးလုံးဆရာတော်သည် မိမိကိုယ်တိုင်ကျောင်းမှ နှစ်ခေါ်လောက် အရောက် လိုက်ပို့မြဲဖြစ်သည့်အတိုင်း ယင်းနေ့လည်း လိုက်ပို့တော်မူသည်။ ပို့မြဲနေရာသို့ ရောက်လျှင် အရှင်ခေမာက **"သီးလုံးဆရာတော် ကောင်းမြတ်သော လုံ့လသတိဖြင့် သာသနာတော်မှာ နေရစ်ပေတော့"ဟု ပြောကြားနှုတ်ဆက်၍ သက်န်းကို ခါယောင်ပြုလိုက်ရာ အရှင်ခေမာသည် ထန်းနှစ်ဖျားခန့် အထက်ကောင်းကင်သို့ ရောက်သွားပြီးလျှင် ကောင်းကင်၌ရပ်လျက် "သီးလုံးဆရာတော်နေရစ်ပေတော့" ဆို၍ ကောင်းကင်ကပင် ကြွသွားတော်မူလေသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀)

သီးလုံးဆရာတော်သည် ကောင်းကင်သို့ ကြည့်ရှုငေးမောနေစဉ်ပင် ကျောင်းကသာမဏေတစ်ပါးရောက်လာမှ သတိရကာ "ငါတို့များ သီးလုံး သီးလုံးနှင့် ဘာသုံးမှ မကျဘူး ကိုခေမာတို့များ သာသနာတော်နှင့် ကြုံတွေ့ရကျိုးရှိပါပေသည်" ဟု မြွက်ဆိုတော်မူကာ ကျောင်းသို့ပြန်ကြွခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀)

နံနက်လင်းလျှင်လင်းခြင်း အရှင်ခေမာ ပျံလွန်တော်မူပြီဟု သီးလုံးဆရာတော်ထံ လာရောက်လျှောက်ကြလေသည်။ သီးလုံးဆရာတော်ကိုယ်တိုင် ကြွ၍ ၇ ရက်အတွင်း ပြီးစီးအောင် စီမံသင်္ဂြိုဟ်လိုက်လေသည်။ သီးလုံးဆရာတော်၏ အာဘောဂမှာ အရှင်ခေမာသည် ပရိနိဗ္ဗာန်ပြုတော်မူသွားသည်ဟု ဆိုလိုပါသည်။ ဤ၍ဤမျှသာ အံ့ဖွယ်ဖြစ်သော ကင်းတောရဆရာတော်ကြီးအကြောင်းကို သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၁)

**ကင်းတောရ ဆရာတော်မရှိသည့် နောက်ပိုင်းတွင် သီးလုံးဆရာတော်သည် ယခင်ကထက် ပိုမိုထက်သန်စွာ ရဟန်းတရားကို အားထုတ်သည်ဟု ယူဆဖွယ်ရှိသည်ဟု စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာ ဆရာတော် ဦးပဏ္ဍိတမထေရ်မြတ်က မှတ်တမ်းတင်ခဲ့ပါသည်။**

(ကျမ်းကိုး၊ စစ်ကိုင်းတောင်ရိုး၊ ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတမထေရ် ဒုတိယအကြိမ်၊ စီစဉ်ရေးသားအပ်သော၊ ရွှေကျင်နိကာယ သာသနာ၀င် အကျဉ်းနှင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဩ၀ါဒကထာများ ၁၉၈၈ ခု၊ ဘိုးရာဇာပုံနှိပ်တိုက်၊ ရန်ကုန်)

(ကျမ်းကိုး၊ တောင်တွင်း ဘိက္ခု အရှင်တိက္ခာစာရ ကျေးလူးရှင် မူလ မင်းကွန်း၊ ဇေတဝန် ဆရာတော် ဘုရားကြီး၏ ထေရုပ္ပတ္တိ၊ ဒုတိယအကြိမ်၊ ၁၉၉၂ ခု၊ ဩဂုတ်လ ဟံသာ၀တီ စာပုံနှိပ်တိုက်၊ စာ ၁၂၄-၁၂၅-၁၂၆-၁၂၇-၁၂၈)

စျာန်အဘိညာဉ်ရ ရဟန္တာအရှင်မြတ်

# သီးလုံးဆရာတော်

အေဒီ ၁၇၈၆ – ၁၈၆၀ ( ၁၁၄၈ – ၁၂၂၂ )





သီးလုံးဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကို ရွှေဘိုသာသနာဝင် အကျယ်ဟူသော အခန်းတွင် စစ်ကိုင်းတောင်ရိုး၊ ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ်က အောက်ပါအတိုင်း မှတ်တမ်းတင်ထားခဲ့ပါသည်။

၁၇၈၆ သီးလုံးဆရာတော်ဘုရားကြီးသည် အေဒီ ၁၇၈၆ ခု (သက္ကရာဇ် ၁၁၄၈ ခုနှစ်) ၌ ရွှန်းရွှန်းတက်ရွာတွင် ဖွားမြင်တော်မူ၍ ရွှေဘိုမြို့နယ် သီးလုံးရွာ၌ သီတင်းသုံးတော်မူသဖြင့် သီးလုံးဆရာတော်ဟု ထင်ရှားတော်မူသည်။

၁၈၆၀ အေဒီ ၁၈၆၀ (၁၂၂၂ ခုနှစ်) သက်တော် ၇၅ ခန့်တွင် ပျံလွန်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၉)

၁၈၁၉ အေဒီ ၁၈၁၉ ခု၊ (သက္ကရာဇ် ၁၁၈၁ ခုနှစ်) အမရပူရမြို့တော်၌ နောင်တော်ကြီး နန်းတက်တော်မူသည်။ ထိုမင်းလက်ထက်၌ ဒုတိယ နမောဆရာတော် ပျံလွန်တော်မူ၍ ဒီပဲယင်း သာသနာဆက် ပြတ်သည်။ (ရွှေကျင်သာသနာဝင်ကို ဆိုလိုသည်) ထိုအခါ ဒုတိယ နမောဆရာတော် တပည့် သီးလုံးဆရာတော် အရှင်စန္ဒိမာ ဆက်လက်၍ သာသာနာပြုတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၉)

၁၈၃၇ အေဒီ ၁၈၃၇ (၁၁၉၉ ခုနှစ်) တွင် ညီတော် သာယာဝတီမင်း နန်းတက်၏။ ရွှေဘိုမင်း လည်းခေါ်၏။ ရွှေဘိုမင်းသည် သီးလုံးဆရာတော် အရှင်စန္ဒိမာကို ဂိုဏ်းသီးဂိုဏ်းခြား အဖြစ် ဇေဝိမုတ်ပေး၍ ကိုးကွယ်တော်မူသည်။ စန္ဒိမာဘိဝံသ သီရိသဒ္ဓမ္မဇမဟာ ဓမ္မရာဇာဓိရာဇာဂုရု တံဆိပ်တော်ဖြင့်လည်းပူဇော်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၉)

ရွှေဘိုမင်းလက်ထက်ကပင် မင်းတုန်းမင်းသားသည် သီးလုံးဆရာတော်ကို ကြည်ညိုခဲ့လေသည်။ အထွတ်အထိပ်သို့ ရောက်ကာလ သီးလုံးဆရာတော်ကို မန္တလေးမြို့တော်သို့ ပင့်သော်လည်း မကြွသောကြောင့် သီးလုံးရွာ၌ပင် ရတနာဘုံစံ ကမ္ဗည်းထိုးကာ ကျောင်းတော်ဆောက်လုပ်လှူဒါန်းလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၉)

သီးလုံးဆရာတော်ဘုရားကြီးသည် ဝိနည်းအဆုံးအဖြတ်နှင့်အတူ မူလ ပဏ္ဏာသအဋ္ဌကထာနိဿျ, ကုလဒူသက ဝိနိစ္ဆယ, ဂမ္ဘီရတ္ထဒေသနာ စသောကျမ်းပေါင်း ၆၄ ကျမ်း ရေးသားတော်မူခဲ့လေသည်ဟု တွေ့ရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀)

(ကျမ်းကိုး၊ ထိုအကြောင်းအရာတို့ကို စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ် စီရင်ရေးသားအပ်သော ရွှေကျင်နိကာယ သာသနာဝင်အကျဉ်းနှင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဩဝါဒကထာများစာအုပ် ၁၉၈၈ ခုနှစ်ထုတ်ကို တွေ့ရှိ၍ လှန်လှောရှာဖွေရာ စာမျက်နှာ ၇၉ - ၈၂ တို့တွင် ရွှေဘိုသာသနာဝင် အကျယ်ဟူ၍ တွေ့ရပေသည်။)

သီးလုံးဆရာတော်နှင့် ဆရာတူတပည့် သမာနာစရိယဖြစ်သော အရှင်ခေမာသည် စာပေတတ်မြောက်အောင် သင်ကြားပြီးနောက် တောရကျောင်း၌သာ အမြဲနေ၍ ရဟန်းတရားကို ထက်ထက်သန်သန် အားထုတ်လေ့ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀)



ရံဖန်ရံခါ သီးလုံးဆရာတော်ထံသို့လာ၍ တရားစကားဆွေးနွေးတတ်၏။ သီးလုံးဆရာတော် တောထွက်၍တရားအားထုတ်ရန်လည်း မကြာခဏ တိုက်တွန်းလေ့ရှိ၏။ ရှင်ခေမာတိုက်တွန်းသောကြောင့်လည်း သီးလုံးဆရာတော် တောရဆောက်တည်ဖြစ်လေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀)

သီးလုံးဆရာတော်၏ ပရိယတ်, ပဋိပတ်တို့၌ အခြေအနေ မည်မျှပေါက်ရောက်လျက် ရှိသည်ကို ပဥ္စမသင်္ဂါယနာတင် မင်းတရားကြီး သိရှိကြည်ညိုတော်မူလိုသော ဆန္ဒတော်ရှိသဖြင့် ဆရာတော်များကို လျှောက်ထားရာ ဆရာတော်များက သင်္ဂဇာဆရာတော်ကို တိုက်တွန်းစေလွှတ်၍ စုံစမ်းစေသဖြင့် သင်္ဂဇာဆရာတော်သည် ခက်သင်ရွာတောရကျောင်း သီးလုံးဆရာတော်ထံသို့သွားရသည်။ ထိုအခါ အောက်ပါအတိုင်း အံ့သြကြည်ညိုဖွယ်ရာ သိရှိရပါသည်။

> ရောက်သွားသော နံနက်ခင်းချိန်တွင် သီးလုံးဆရာတော် ဒန်ပူသပ်နေသည်ကို ဖူးမြော်ရသည်။ ဒန်ပူသပ်လျက်ပင် သင်္ဂဇာဆရာတော် မေးလျှောက်သော ပရိယတ်နှင့် ပဋိပတ်ပြဿနာတို့ကို ဖြေကြားတော်မူသည်။ ပြီးလျှင် သင်္ဂဇာဆရာတော်ပြန်မည်ဟု ဝတ်ပြုလျှင် သင်္ဂဇာ ခက်သင်ရွာက ဆွမ်းစားပင့်ထားသည် ဆွမ်းစားပြီးမှ ပြန်လေဟု မိန့်တော်မူသည်။ ယခု ဘာနှင့်ကူးလာခဲ့သလဲ၊ လှေနှင့်ကူးလာခဲ့ပါသည်ဘုရား၊ **အေး သို့ဖြင့် လှေနှင့်ပဲ ကူးသွားနှင့်လေဟု အမိန့်ရှိ၍ သင်္ဂဇာဆရာတော်၏ လှေ ခက်သင်ရွာသို့မဆိုက်ရောက်မီ သီးလုံးဆရာတော်သည် ခင်သင်ရွာလှေဆိပ်၌ သက်န်းရုံတော်မူနေတော်သည်ဟူသတည်း။**
>
> ခက်သင်ရွာနှင့် တောရကျောင်းသည် ထိုအချိန်က ရေခြားလျက်ရှိသည်။ ယနေ့တိုင် ထိုတောရကျောင်း၌ သံဃာအဆက်မပြတ်ရှိသည်ဟုသိရသည်။ ခက်သင်ရွာကား ကျောက်မြောင်းမြို့အောက် ဧရာဝတီမြစ်ကမ်း၌ တည်ရှိသည်ဟုသိရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၁)

ထိုအကြောင်းကို ရေးရသည်မှာလည်း စစ်ကိုင်းတောင်ရိုး ဆရာတော်ဘုရားကြီးသည် ခိုင်လုံသော အကြောင်းပြချက်ရှိပေသည်။ ထိုအကြောင်းကို သိမ်မွေ့စွာမှတ်တမ်းတင်ခဲ့သည်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

> **အရွယ်တော် အိုပြီဖြစ်သော သီးလုံးဆရာတော် ဘုရားကြီးသည် နွေရာသီ ညဥ့်အခါ တောရကျောင်းနှင့် မနီးလှသောရေကန်၌ ရေသုံးသပ်တော်မူသည်ကို ရေချိုးသွားသော ကပ္ပိယလူသူတော် တွေ့မြင်၍ ဆရာတော်ကြီး ဘယ်ကဲ့သို့ ကြွလာလေသလဲဟု ဆင်ခြင်စဉ်းစားနေစဉ် ဆရာတော်ကြီး ရေသုံးသပ်ပြီး၍ ပြန်ကြွခါနီး၌ သူတော် ငါအသက်ထင်ရှားရှိနေသမျှ မည်သူ့ကိုမှ မပြောရဟု နှုတ်ပိတ်တော်မူပြီးလျှင် ကောင်းကင်ခရီးဖြင့် ကျောင်းသို့ပြန်ကြွတော်မူသည်ဟု ဆရာတော်ကြီး ပျံလွန်တော်မူခါမှ လူသူတော်က ပြောသည်ဟု တစ်ဆင့်စကား မှတ်သားရဖူးလေသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၂)

သီးလုံးဆရာတော်နှင့် ကင်းတောရဆရာတော် အရှင်ခေမာတို့သည် ဈာန်အဘိညာဉ်ရ ရဟန္တာပုဂ္ဂိုလ်မြတ်များဖြစ်သည်ဟု ကြည်ညိုရင်းရှိသဖြင့် ဆက်လက်ဖတ်ရှုရာ ပိုမိုကြည်ညိုရပါသည်။



အခါတစ်ပါး ရှိမ်းမကားမြို့၌ သိမ်သမုတ်ရန်ကိစ္စအတွက် စစ်ကိုင်း၊ မင်းကွန်း၊ မန္တလေး စသောမြို့ရွာတို့မှ ထင်ရှားသောဆရာတော်များ ကြွလာကြရာ သီးလုံးဆရာတော် လည်း ကြွလာတော်မူသည်ဖြစ်၍ အများကပင် သီးလုံးဆရာတော် တရားချီးမြှင့်ရန် လျှောက်ထားတောင်းပန်ကြရာ သီးလုံးဆရာတော်ကဟောရန် ပဋိညာဉ် ပြုလုပ်ပြီး နောက် တရားမဟောမီ စကားပလ္လင်အနေ မိန့်တော်မူသည်မှာ တရားဟောရမည် ဆိုလျှင် မိမိသဘောကျ အားထုတ်နေကျ နှလုံးသွင်းလျက်ရှိသော တရားကိုသာလျှင် ဟောမည်ဟု မိန့်ကာ အနာဂါမင်ဖိုလ်တိုင်အောင် ဝိပဿနာရှုပုံ၊ ဉာဏ်ဖြစ်ပုံ၊ မဂ်ဖိုလ် ဆိုက်ရောက်ပုံ၊ ဖလသမာပတ်ဝင်စားပုံတို့ကိုပါ ဟောတော်မူသည်ဟု ရွှေဟင်္သာ ဆရာတော်ကြီး အရှင်ပဏ္ဍိတမထေရ်မြတ်က မှတ်တမ်းတင်ထားပါသည်။

(ကျမ်းကိုး၊ ထိုအကြောင်းအရာတို့ကို စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ် စီရင် ရေးသားအပ်သော ရွှေကျင်နိကာယ သာသနာဝင် အကျဉ်းနှင့် ရွှေကျင်ဆရာတော် ဘုရားကြီး၏ ဩဝါဒကထာများစာအုပ် ၁၉၈၈ ခုနှစ် ထုတ်ကို တွေ့ရှိ၍ လှန်လှောရှာဖွေရာ စာမျက်နှာ ၇၉. - ၈၂ တို့တွင် ရွှေဘိုသာသနာဝင် အကျယ်ဟူ၍တွေ့ရပေသည်။)
(၂)(ကျမ်းကိုး၊ ဓနုဖြူသန်းဆွေသစ်၊ သီးလုံးဆရာတော် ( သို့မဟုတ် ) ခန္တီတရားပွားများစေသူ၊ ဂမ္ဘီရမဂ္ဂဇင်း စာ၊ ၄၄ - ၄၉ )

အထက်ပါဆောင်းပါးမှာ - မသိသူကျော်သွား၊ သိသူဖော်စား၊ ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး၊ ဈာန်အဘိညာဉ်ရ သီးလုံးဆရာတော် ရဟန္တာအရှင်မြတ်ကြီး၊ အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၃၉၊ ၂၆-၁၂-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

သီးလုံးဆရာတော်ဘုရားကြီး မဟာထေရုပ္ပတ္တိကို ဆက်လက် ရှာဖွေခဲ့ပါသည်။ ထိုအခါ ဦးဘခိုင် ဆိုသူ စုဆောင်းစီရင်ရေးသားသော စာအုပ်တစ်အုပ်ကိုတွေ့ရပါသည်။

၁၂၉၁ ခု၊ တော်သလင်းလအတွင်း ပုံနှိပ်သည်၊ ပထမနှိပ်ခြင်း၊ အုပ်ရေ ငါးရာ၊ ထုတ်ဝေရာဌာန၊ ရန်ကုန်မြို့ ၁၄၁ လမ်း၊ အမှတ် ၃၄ - ၃၆ ၊ နေပြည်တော် စာအုပ်ထုတ်ဝေရာဌာန ဟူ၍ တွေ့ရပါသည်။ ထိုစာအုပ်တွင် အလွန်ရှားပါးသော အချက်အလက်များကိုလည်းကောင်း၊ မကြားနာ မသိဖူးသေးသော အချက်အလက်များကို လည်းကောင်း တွေ့ရှိရပါသည်။ အလွန် ဝမ်းမြောက် ကြည်ညိုဖွယ်ရာ ဖြစ်ပါသည်။ ထို့ကြောင့် ဝမ်းမြောက်ဝမ်းသာဖြင့် သီးလုံးဆရာတော်ဘုရားကြီး၏ မဟာရုပ်ပုံလွှာကို ဆက်လက် ထပ်ဆင့် ပူဇော်နိုင်ခွင့် ရရှိခြင်းဖြစ်ပါသည်။ ဖတ်ကြည့်ပါ။

တရံရောအခါ အမိဖြစ်သူသည် ဆွမ်းလောင်းရန် ပန်းကန်များကို ရှေးဦးကြိုတင် ဆေးကြောသုတ်သင် ပြင်ဆင်၍မထားသည်နှင့် သံဃာတော်မြတ်များ ကြွလာသော အခါမှသာ ချက်ပြုတ်ရာမှထ၍ ဆေးကြောသုတ်သင် ဆွမ်းဟင်းများပြင်ဆင်လျက် လောင်းချေသောကြောင့် သံဃာတော်မြတ်များ အတန်ကြာငံ့စား၍ နေသည်ကို မြင်လျှင် ငါးနှစ်ရွယ်မျှရှိသော မောင်စန္ဒသည် သူငယ်တော်များနှင့် ကစားနေရာမှ ထလာ၍ အမေ သံဃာတော်မြတ်များ ငံ့စားတော်မူနေသည်မှာ အတော်ကြာပြီ ဂုဏ်ကြီးတော်မူသော သံဃာတော်မြတ်များက ငံ့စားရသည်ကားမလျှောက်ပတ်။ မရှိမသေ အလေးမပြုရာသို့ရောက်လေသည်ဖြစ်၍ သတိထားပြီးလျှင် ရှေးဦးတင်၍ ဆွမ်းတော်များကို ပြင်ဆင်ထားပါ အမေ ဟူ၍ အမိအား သတိပေးသောအသွင် ပြောကြားလေလျှင် အမိဖြစ်သူက ကောင်းပြီငါ့သား ယနေ့မှာ အမေ သတိလစ်၍



ဤသို့ဖြစ်ရသည် နောက်ကို အမေသတိထားပါမည်ဟူ၍ သားအမိ ပြောကြသော စကားကို သံဃာတော်မြတ်များ တွေ့မြင်ကြားသိရသဖြင့် ကျောင်းသို့ ပြန်ရောက်ကြလျှင် နမောဆရာတော်ဘုရားကြီးအား လျှောက်ထားသည်တွင် အလွန်အားရတော်မူသောကြောင့် ဩော် ပါရမီရှိသော ယောကျ်ားတို့မည်သည် ငယ်စဉ်ကပင် အလိမ္မာသွေး ထင်ရှားပေသည်ဟု ချီးမွမ်းထောပနာလေ၏။ (မူရင်းအတိုင်းဖော်ပြပါသည်)

၁၇၉၁ ဤကား ၅ နှစ်ရွယ် မောင်စန္ဒသည် အမိအားသတိပေးသောအကြောင်းတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂-၃)

သီးလုံးဆရာတော်ကြီး၏ ငယ်စဉ်ဘဝတို့မှာ အလွန် လူသိနည်းပုံရပါသည်။ ကျွန်ုပ်တို့လည်း ဟိုဟိုဒီဒီ စာနယ်ဇင်းများတွင် မဖတ်မိခဲ့ဖူးပါ။ သို့သော် ယခု ဆရာဦးဘခိုင်ထံမှ သိရှိရပုံမှာ ကံထူးလှပါသည်။ ဖတ်ကြည့်ပါ။

## ၆ နှစ်အရွယ်တွင် ဖခင်ဖြစ်သူအား အကြံဉာဏ်ပေးသည်ကို ပြဆိုခြင်း

၁၇၉၂ တရံရောအခါ အဖဖြစ်သော ဦးရွှန်းသည် အိမ်တွင်မွေးထားသော နွားနှစ်ကောင်ကို နံနက်မွန်းမတည့်မီ ရွာနောက်စားကျက်မြက်များသောအရပ်တွင် လွှတ်ထားခဲ့၍ ညနေ ၃ နာရီအချိန်မှ နွားများကို ကောက်ဖမ်းအံ့သောငှါ သွားသည်တွင် မတွေ့မမြင်သောကြောင့် နေအိမ်သို့ပြန်လာ၍ နွားရှာရန် ညီနှင့်တူများကိုခေါ်လေလျှင် မောင်စန္ဒက အဘ ဤနွားနှစ်ကောင်ကား အရပ်တစ်ပါးသို့ လွင့်သွားကြမည်မဟုတ်ပါ။ ရေသောက်ချိန်ကျ၍ ရေသောက်ရန်သွားကြသည် ဖြစ်ပါလိမ့်မည်။ ဘလေးနှင့် ကိုကြီးတို့ကိုမခေါ်ပါနှင့်။ ကျွန်တော်နှင့်ရေဆိပ်သို့သွား၍ ရေဆိပ်ကစောင့်ပါစို့ဟု ပြောပြီးလျှင် အဘနှင့်အတူ ရေဆိပ်မှစောင့်ရာ နွားနှစ်ကောင်သည် ရေသောက်ရန် ဆင်းလာနေသည်ကို တွေ့မြင်ကြရသဖြင့်၊ ရေကိုဝစွာသောက်ပြီးလျှင် သားအဖ နှစ်ယောက်တို့သည် နွားစီးလျက် ရွာသို့ပြန်လာကြသည်ကို ရွာသူရွာသားတို့မြင်လျှင် များစွာချီးမွမ်း၍ ဝမ်းမြောက်ဝမ်းသာ ထောပနာကြလေ၏။

၁၇၉၂ ဤကား ၆ နှစ်ရွယ် မောင်စန္ဒသည် နွားပျောက်ရာတွင် အဖအား ဉာဏ်ပေးသောအကြောင်းတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃-၄)

## ရှင်စန္ဒိမာ၏ ဂုဏ်ရည်ကို ပြဆိုခြင်း

၁၇၉၃ မောင်စန္ဒသည် ၇ နှစ်အရွယ်သို့ ရောက်လျှင် စာပေသင်ရန် နမောဆရာတော်ဘုရားကြီး၏ အထံတော်သို့အပ်နှံလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄)

သီးလုံးဆရာတော်ဘုရားကြီး၏ သည်းခံခြင်းတရားကို အံ့ဩဖွယ်ကြည်ညိုဖွယ်ရာ ဖတ်ရှုရပါသည်။ ရဟန္တာဖြစ်တော်မူမည့် ရဟန်းထူးတစ်ပါး၏ ငယ်စဉ်ကာလဘဝဖြစ်ပါသည်။ နှိုင်းယှဉ်စဉ်းစားရန် ဖြစ်ပါသည်။



သီးလုံးဆရာတော်ဘုရားသည် ရဟန်းဖြစ်တော်မူသောအခါ ရဟန်းကောင်းရဟန်းမြတ် ဆရာများထံ၌ နည်းနာခံယူခဲ့ပေသည်။

ရဟန်း (၁)ဝါမျှ ရရှိလျှင် ဆရာတော်ဘုရားကြီး၏ ဩဝါဒအတိုင်း အမရပူရ ရာဇဌာနီမင်းနေပြည်ကြီးသို့ ကြွရောက်တော်မူ၍ မင်းအိုဆရာတော်၊ ဆုံထားဆရာတော်၊ မင်းရွာဆရာတော်စသော ဆရာတော်ဘုရားကြီးများထံ နည်းနာခံခဲ့သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၀)

သီးလုံးဆရာတော်ဘုရားကြီး၏ ငယ်ဘဝက သည်းခံခဲ့ပုံတို့မှာ နောင်သောအခါ ဂန္ထဝင်မြောက် သည်းခံမှုကြီးအဖြစ် မှတ်တမ်းတင်ရပေတော့သည်။ ဖတ်ကြည့်ပါဦး။

ငယ်စဉ်ကျောင်းသား အရွယ်တွင် နမောဆရာတော်ဘုရားကြီး၏ ခြေရင်းတော်ဝယ် နေစဉ်အခါက ပြုမိခဲ့သောအပြစ်တစ်ခုကို ဆင်ခြင်မိ၍ ငါသည်ကျောင်းနေစဉ်အခါက ငါနှင့် မောင်ရှင်ငယ်ကလေး နှစ်ယောက်တည်းသာ ကျောင်းမှာနေရစ်ခဲ့ကြရသည်။ ဆရာတော်ဘုရားကြီးနှင့်တကွ ကျောင်းရှိသံဃာအားလုံး ကျောင်းသားတွေ အဆုံးတိုင် အောင်ပင် ဆွမ်းဟင်းခံဝင်ကြရလေသည်။ ထိုအခါ ငါတမူကား ဆရာတော်ဘုရားကြီး အလို့ငှာ ဆံတစ်စလယ်ဝင်ဆွမ်းအိုးကလေးနှင့် ဟင်းနွေးရန် သံဒယ်အိုး၌ ရေတစ်ပုံး လောက်ထည့်၍ ရေကျက်အောင်နွေး၍ ထားနှင့်ရလျက် မောင်ရှင်ငယ်မူကား ဘုရား ရေလှူခြင်း၊ ပန်းကပ်ခြင်း၊ တံမြက်လှည်းရခြင်း၊ ခြေဆေးရေထည့်ရခြင်း၊ ဝတ်နိပါတ် ဖြင့် အစဉ်မပြတ် ပြုရစ်ကြရသည်။ တစ်နေ့သောအခါ သူငယ်ဘဝ ဆော့ချင်သည့် ကိစ္စနှင့် ဆွမ်းချက်ရာက ထမင်းရည်ပူကိုကိုင်ယူ၍ မောင်ရှင်မသိအောင် အသာ သွားပြီး နောက်နားက တိတ်တဆိတ်ချောင်း၍ ခေါင်းပေါ်သို့ ထမင်းရည်ပူနှင့် လောင်း လိုက်မိခဲ့လေသည်။ မောင်ရှင်မှာမူကား မရယ်မပြုံးနှလုံးမရွ၊ မည်သည်ကိုမျှမပြော မဆို။ မျက်နှာမျှမအိုရှာဘဲ ပင်ကိုရှိ ဣန္ဒြေနှင့် ဦးခေါင်းက တစ်ကိုယ်လုံး သက်နီးပါ ရွှဲလေသည်။ ထမင်းရည်တွေကိုသာ ကောင်းမွန်စွာဆေးလျှော်သဖြင့် ကျောင်းပေါ်တွင် သာ စာအံမြဲအံ၍နေရှာလေသည်။ ဤသို့ ငါသည် စကားကျီစယ်၊ ရယ်သွမ်းသွယ်၍ မဖွယ်မရာပြုမိသော မိုက်ပြစ်သည် အလွန်တရာ ဝန်လေးမိ၏။ အောက်ခွင်မြေထဲ အဝီစိငရဲ၌ နှစ်အရေအတွက်မည်၍မည်မျှဟု မရေမတွက်နိုင်အောင် ခံရဦးတော့ မည်ဟု ကြောက်အားကြီးသောကြောင့် လှိုက်လှိုက်လှဲလှဲငိုမိလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၄-၅၅)

သီးလုံးဆရာတော်ဘုရားကြီးသည်လည်း ဈာန်အဘိညာဉ်ရ ရဟန်းထူးရဟန်းမြတ်အဖြစ် ပြည်ရွာအနှံ့ နေပြည်တော်၊ မဆုံအောင် ကျော်ကြားတော်မူခဲ့ပါသည်။ ထိုအခါ ငယ်စဉ်က သည်းခံမှုကြီး အတွက် နောင်လာနောက်သားများအတုယူဖွယ်ဖြစ်ပုံမှာ ဇာတ်လမ်းသဖွယ်ဖြစ်ပါသည်။ ဆက်၍ ဖတ်ကြည့်ပါ။

ထိုနောက် ဦးထွားက မယ်ဘွား . . . ယခုအရေးကိစ္စကို ပြေပျောက်ရန်နှင့် နောက်နောင်ပူပန်ခြင်း၊ စိုးရိမ်ခြင်းမဖြစ်ရအောင် ကန်တော့ပွဲဆွမ်းခံကတစ်တင်း၊ ဟင်းလျာ အခြောက်ကတစ်ပိဿာ။ ဆီတစ်ပိဿာ၊ ဆားတစ်ပိဿာ၊ ငရုတ် - ကြက်သွန် - ထန်းလျက် - ကွမ်း - ဆေး လက်ဖက်တစ်ပိဿာစီ။ အုန်းတစ်ခိုင်၊



ငှက်ပျောတစ်ခိုင်၊ သပိတ်သက်န်းပရိက္ခရာရှစ်ပါးတစ်စုံနှင့် စေ့စုံစွာပြင်ဆင်၍ ယနေ့ပင် သားသမီးတစ်စုနှင့် ဆရာတော်ဘုရားကြီးထံ၊ ကန်တော့ဝန်ချတောင်းပန်ရင်း တရားဒေသနာ ဓမ္မကထာတို့ကို ကောင်းစွာသွားရောက်နာကြားကြရန် ပြင်ဆင်ပေတော့ဟူ၍ တိုင်ပင်ပြောဆို စီစဉ်ကြပြီးလျှင် သီးလုံးဆရာတော်ဘုရားကြီးထံသို့ သွားရောက်ကြလေ၏။ (မူရင်းစာသား)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၇)

သီးလုံးဆရာတော်ဘုရားကြီးနှင့်တွေ့သောအခါ ငယ်စဉ်အခါ လက်ရဲဇက်ရဲ ကျောင်းသားကြီးငထွားဆိုသူ၏ ဖြစ်ရပ်မှန်ဝန်ခံချက်သည် သီးလုံးဆရာတော်ဘုရားကြီးအပေါ် ကြည်ညိုမှုကြီးကို တိုးပွားစေခဲ့ပါသည်။

အရှင်ဘုရား . . . ငယ်စဉ်အခါက နမောဆရာတော်ဘုရားကြီး၏ ခြေတော်ရင်းတွင် သံဃာတော် အမြောက်အမြားနှင့် မောင်ရှင် ကျောင်းသားတပည့်အပေါင်း များစွာတို့ ခိုအောင်းပညာ ရှာကြရာတွင် ဆရာတော်ဘုရားကြီးနှင့်တကွ သံဃာတော်များတို့ ဆွမ်းခံကြွသွားတော်မူကြသဖြင့် ကျောင်းတော်တွင် အရှင်ဘုရားတစ်ပါးနှင့် ကျောင်းသားကြီးငထွားဆိုသူတစ်ယောက်သာ ကျန်နေရစ်ပါသည်။ အရှင်ဘုရားမှာ ဝတ်ကြီးဝတ်ငယ်တို့ကို ကောင်းစွာဆောင်ရွက်၍ ငထွားမှာ ဆွမ်းချက်၍ ရေနွေးအိုးကြီး တည်လျက်နေရပါတော့သည်။ အရှင်ဘုရားမှာ ပြုသင့်ပြုအပ်သော ဝတ်နိပါတ်တော်ကို မလစ်မလပ်ရအောင် ဆောင်ရွက်တော်မူပြီးလျှင် စာကျက်စာအံအလုပ်နှင့် ကျောင်းတော်ကပြင်တွင် နေတော်မူရာ ငထွားဆိုသူ ကျောင်းသားကြီးသည် ကပြက်ကချော် ထမင်းရည်ပူကို ပန်းကန်နှင့်ကော်ယူခဲ့သောဖြင့် တိတ်တိတ်လာညောင်း အသာချောင်းလျက် အရှင်ဘုရားခေါင်းပေါ်သို့ သွန်လောင်း၍ ကစားမိလေသည်ကို အရှင်ဘုရား သတိထားမိ၍ သိမှတ်တော်မူပါသေးသလားဘုရား။

ဩော် ဒါယကာ သတိရမိပါသေး၏။ ဤသည့်ကျောင်းသား သူငယ်ချင်း မည်ဖော်ငထွားသည် ရှိမှရှိရှာပါသေး၏လား။ သေများပင်သေရှာလေတော့သလား။ ဘယ်သူ ငထွားဟူ၍ အထင်အရှား တပ်အပ်သေချာ မမှတ်မသိချေ။ ဒါယကာ။

အရှင်ဘုရား၊ ဤသည့်ကျောင်းသား ငထွားဆိုသူသည် အခြားသူ မဟုတ်ပါ။ ယခု အရှင် ဘုရားခြေရင်းတော်မှောက် ရောက်လျက်ရှိသူ တပည့်တော်ဖြစ်ပါသည် ဘုရား။ (မူရင်း သတ်ပုံအတိုင်းဖြစ်ပါသည်။)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၉)

ငယ်စဉ်အခါက အရှင်ဘုရားကို ထမင်းရည်ပူနှင့် ယူငင်လျက်ချောင်းမြောင်း၍ လောင်းမိခဲ့ဖူးသော အပြစ်ကြီးတစ်ခုသာ ဘုရားတပည့်တော်စိတ်၌ အလေးဆုံးသော ဝန်ဟု ထင်မှတ်လျက် ရှိပါသောကြောင့် တပည့်တော်၏အပြစ်ကို လျှောက်ကြား၍ အသနားတော်မြတ်ခံရပါတော့သည်ဘုရား၊ တပည့်တော် မိုက်မှားမိခဲ့သော ကာယကံ၊ ဝစီကံ၊ မနောကံ၊ အပြစ်များကို သနားသဖြင့် သည်းခံတော်မူပါဘုရား။

ဒါယကာ၊ ထိုအခါကပင် သည်းခံပြီးဖြစ်သည်။ ယခုထပ်မံ၍ သည်းခံရန် မရှိတော့ဘူးမဟုတ်လား။ (မူရင်းစာသား)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၁)



လျှောက်ထားပါရစေဦးအရှင်ဘုရား။ ထိုအခါက အရှင်ဘုရားသည် သည်းမခံနိုင်လောက်အောင် တပည့်တော်သည် ရွှင်းဖောက်စော်ကား၊ ကြုံးလွှန်မှားပါလျက်၊ အမျက်မရှိ၊ တိတိက္ခခန္တီသဘောဖြင့် မရယ်မပြုံးနှုတ်လုံးမရှ၊ အနည်းငယ်မော်ကြည့်ရုံမျှနှင့် ဆေးလျှော်ကာ စာအံမြဲအံလျက် သည်းခံနေတော်မူသည့် အတွက်ကြောင့်၊ တပည့်တော်စိတ်မှာ မသက်မသာဝန်လေးလှပါသည်။ သို့တည်းမဟုတ် ဒေါသအမျက် ခြောင်းခြောင်းထွက်၍ ပြိုင်ဘက်ကလူ ရန်တုံ့မူသူကို အလေးမပြု ဂရုမစိုက်၊ အတူတူ အမိုက်ချည်းဖြစ်၍ ဓစ်နှင့်ဓစ်ထုပ်က ကျေကြသည်ပင်ဖြစ်သောကြောင့် အဖုအမြစ်အရှုပ်အထွေးမရှိ၍ ကျေအေးလှပါကြောင်းနှင့် လျှောက်ထားလေလျှင် ဆရာတော်ဘုရားကြီးလည်း စဉ်းငယ်ပြုံးရွှင်တော်မူ၍ သည်းခံပါ၏ဟု မိန့်တော်မူလေသတည်း။ (မူရင်းစာသား)

သီးလုံးဆရာတော်ဘုရားကြီးသည် ဝန်ချတောင်းပန်သူ ဒါယကာဦးထွား ပြန်သွားသောအခါ ကျောင်းနေတပည့်အပေါင်းတို့အား နည်းယူဖွယ်ရာ ဆုံးမပုံမှာ ဂန္ထဝင်မြောက်မှတ်တမ်းဖြစ်ပါသည်။

ထိုနောက်မကြာ ဒါယကာဦးထွားသည် အေးမြသောစိတ်နှလုံးဖြင့် ပြန်သွားကြပြီးသည်တွင် မျက်မှောက်ရှေ့တော်တွင် စီစဉ်ကာထားရှိသော ကန်တော့ပွဲအရပ်ရပ်တို့ကို ကပ္ပိယတပည့်များကို ရွှေ့လျားသိမ်းယူတော်မမူစေဘဲ ထားမြဲဖြင့်သာ ထားရှိစေလျက် သံဃာတော်အပေါင်းတို့အား အကြောင်းတစ်ခုအရေးပြု၍ စည်းစုခေါ်ငင်တော်မူလေ၏။

ထိုအခါ တပည့်သံဃာတော်အပေါင်းတို့တွင် အကြီးဆုံးဖြစ်သော သံဃာတော်တစ်ပါးသည် ရိုသေစွာရှိခိုးလျက် ယခုအခါ သံဃာတော်များ အညီအညွတ်စည်းဝေးလာရောက် စုံလင်လောက်ပါပြီ အရှင်ဘုရား၊ မည်သည့်ကိစ္စ မည်သည့် အရေးအရာကြောင့် ခေါ်တော်မူပါသနည်းဟု လျှောက်ထားလေသော် ဦးပဍ္ဍင်းတို့ ကိစ္စတစ်ပါး၊ အခြားအရေးအရာမရှိပေ။ စင်စစ်သော်ကား၊ ဤရှေ့တွင် စီစဉ်၍ထားသော လှူဖွယ်ဝတ္ထု အစုစုအရပ်ရပ်များကို မြင်ကြပါ၏လောဟူ၍ မေးတော်မူလျှင် သံဃာတော်များက မြင်ပါကြောင်းလျှောက်ထားလေလျှင် ဦးပဍ္ဍင်းတို့ ယနေ့ ဤသို့သော လာဘ်သပ်ပကာရများကို ဆရာတော်မှာ ရရှိပေသည်၊ လာဘ်သပ်ပကာရကလည်း မနည်းပေဘူး။ သပိတ်သင်္ကန်း၊ ပရိက္ခရာ တစ်စုံနှင့် ဆွမ်းဆန်တစ်တင်း၊ ကွမ်း၊ ကွမ်းသီး၊ ငရုတ်၊ ကြက်သွန်၊ ထန်းလျက်၊ တစ်ပိဿာစီ၊ ငှက်ပျောတစ်ခိုင်၊ အုန်းတစ်ခိုင်၊ ဆေးလက်ဖက် အစုံအလင်နှင့် ဤဝတ္ထုများကို ယနေ့ ဆရာတော်မှာ ရရှိသည်ကား၊ အခြားကြောင့်မဟုတ်၊ ဆရာတော်ငယ်စဉ် မောင်ရှင်ကလေးအဖြစ်နှင့် သည်းခံခဲ့ရသည့်၊ ကာမာဝစရ - မဟာကုသိုလ်ပုညကြောင့် ရပေသည်ဟူ၍ သည်းခံခဲ့ရသည့် အကြောင်းကို နောက်ကအဆိုပါအတိုင်းဖြင့် ပိုင်းပိုင်းခြားခြား သားနားစွာ မှတ်သားလောက်အောင် ဟောဆောင်တော်မူပြီးမှ ဦးပဍ္ဍင်းတို့ ပါရမီဆယ်ပါးတွင် ဒါနပါရမီ၊ သီလပါရမီ၊ မေတ္တာပါရမီ၊ ဥပေက္ခာပါရမီ၊ နိက္ခမပါရမီ၊ ဝီရိယ ပါရမီ၊ သစ္စာပါရမီ၊ အဓိဋ္ဌာန်ပါရမီ၊ ပညာပါရမီတို့မှာ ဖြစ်လွယ်ပါ၏။ ခန္တီပါရမီတစ်ပါးမှာ၊ လွန်စွာပင် ဖြစ်ခဲလှ၏။ သို့ဖြစ်၍ ခန္တီတရားဖြစ်ပွားနိုင်ကြအောင် သတိထား၍ ကြိုးစားပြီး သည်းခံတော်မူကြပါ။ (မူရင်းစာသား)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၁-၆၃)



သီးလုံးဆရာတော်ဘုရား၏ အံ့ဖွယ်ထူးခြားချက်များကို ဆက်လက် လေ့လာသိရှိရပါသည်။ အထူးသဖြင့်အားဖြင့် ဇာတိ ဆွမ်းခံမြနေရာမှထွက်ခွာ၍ ရန်ကုန်မြို့ ရွှေတိဂုံစေတီတော်ကြီးကို သွားရောက်ပူဇော်ပုံတို့ကို အံ့ဩကြည်ညိုဖွယ်ရာ သိရှိခဲ့ရပါသည်။

ဆရာတော်ဘုရားကြီးသည် ပစ္ဆိမယာမ်အချိန်တွင် သပိတ်တော်ကို စင်ကြယ်စွာ ဆေးကြောပွတ်သပ်၍ အထပ်ထပ်သော ရေစင်ဖြင့် သုတ်သင်တော်မူပြီးလျှင်၊ ကပ္ပိယကြီးသို့ အပ်နှံ၍ သိုက်မြိုက်၊ ကောင်းမွန်စွာ၊ ချက်ပြုတ်စီမံအပ်သော၊ ဆွမ်းဘောဇဉ်၊ ချိုချဉ် အရသာတို့ကို၊ သပိတ်တစ်လုံးတည်းတွင် ပတ္တပိုဏ်ပြင်ဆင်၍ သင်္ကန်းစသော ပရိက္ခရာ စုံနှင့်တကွ၊ ကပ္ပိယကြီးကို ထမ်းဆောင်ချီမစေလျက် ရှေ့ကကြွတော်မူလေ၏။ (မူရင်းစာသား)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၉)

မြန်မကြာစေတီတော်ကြီးတစ်ဆူသို့၊ အရှေ့မျက်နှာစောင်းတန်းလှေကားမှ တက်တော်မူ၏။ ဇမ္ဗူရာဇ်ရွှေစင်ရောင်တို့ဖြင့် ထွန်းပြောင်တင့်တယ်၊ လွန်သပ္ပာယ်သဖြင့် ကြည်ညိုဖွယ်ရှိလှသော စေတီတော်ရင်ပြင်သို့ ရောက်တော်မူ၍ နေအရုဏ်လည်းမတက်လာသေးသည်နှင့် ငုံ့လင့်တော်မူရင်းဖြင့် ဝပ်စင်းကာ ရှိခိုးပူဇော်တော်မူလိုသေးသောကြောင့် မိန့်တော်မူသည်ကား ဒါယကာကြီး၊ ယခု စေတီတော်သို့ ရောက်ကြပြီ၊ သို့သော်လည်း နေအရုဏ်မတက်သေးသောကြောင့် ဖြည်းဖြည်းရှိခိုး ပူဇော်လျက် နေအရုဏ်တက်လောက်မှ ကပ်ဆက်လှူဒါန်းကြရမည်ဟု မိန့်တော်မူလျှင် ကပ္ပိယကြီးက ကြံအောက်မေ့သည်ကား၊ ခြေနေကြယ်လွင်၊ မြင့်ကမြင်သနဲ့၊ ရှုသချင်ဖွယ် သိင်္ဂီရောင်သန်း၊ ရွှေရည်ဖြင့် သွန်းသကဲ့သို့ ရွှန်းရွှန်းအိအိ မျက်စိအာရုံရှုမကုန်၊ ပုံတော်ကပြည့်ပါဘိ၊ လောကီကျက်သရေ၊ ဘမရာဘွေချပ်၊ နန်းပြာသဒ် နေရှိန်ဟပ်သည့်နှယ်၊ လှုပ်လျှပ်ဝင်းဝါ၊ သဒ္ဓါရွှင်မြူး၊ စေတနာထူးလို့၊ ကြည်နူးဖွယ်ကောင်းလိုက်ပါဘိတော့၊ သို့ရာတွင် ဘယ်စေတီဘယ်ဘုရားလို့ ထင်ရှားစွာသိရအောင်၊ ဆရာတော်သခင်ဇကျေးဋ္ဌူးရှင်ကို တင်လျှောက် မေးမြန်းရဦးတော့မှာပဲဟူ၍ စိတ်ဖြင့်ကြံပြီးလျှင် -

အရှင်ဘုရား ဤစေတီ ဤဘုရားကြီးကို တပည့်တော် မဖူးမြော်ရဖူးပါ၊ တခမ်းတနား၊ အဆောက်အအုံတွေကများသနဲ့၊ ဘယ်ဘုရား၊ ဘယ်စေတီဟူ၍ သိလိုလှပါသောကြောင့် လျှောက်ထားပါသည်ဘုရား။

အို ဒါယကာကြီးရဲ့ ဤဘုရားသည်ကား သာမန်စေတီ၊ သာမန်ဘုရားကြီး မဟုတ်၊ ဟံသာဝတီမဏ္ဍလ၊ တိုင်းဌာနတွင် ဥက္ကလာပဇနပုဒ်ဟူ၍ ခေါ်ဝေါ်သမုတ်အပ်သော ရန်ကုန်မြို့ဒေသ သိင်္ဂုတ္တရကုန်းငှုတွင်၊ လေးဆူသော ဘုရားရှင်တို့၏ မွေတော်ဓာတ်တော်မြတ်တို့၏ ကိန်းဝပ်တော်မူရာ၊ ရွှေတိဂုံစေတီတော်ကြီးဟူသည် ဤစေတီတော်ကြီးပင်ဖြစ်သည်ဟု မိန့်တော်မူလျှင် ကပ္ပိယကြီးမှာ အတိဗလဝ၊ ပီတိဟုံကြွသဖြင့် လွန်စွာဝမ်းမြောက်ဝမ်းသာဖြစ်ပြီးလျှင် ကြံဆင်ခြင်သည်မှာ ဤဥက္ကလာပ၊ ရန်ကုန်မြို့ ဒေသသည် ငါတို့ ရတနာသိယ်၊ ရွှေဘိုမြို့ နဂရက၊ စက္ကဝါဠတာဖြင့် တိုင်ပေါင်းနှစ်သိန်းကျော်ခန့် ခရီးကွာလှမ်းရာတွင် သို့ဖြစ်လျက် ယခုမှာမူကား သွားရသည်ဟူ၍မထင်၊ ရုတ်တရက် ရှောင်တခင် ဆွမ်းခံဝင်သလောက်မှ မပင်ပန်း၊



မနွမ်းမရိ၊ ချမ်းသာသည့် ကိုယ်စိတ်ဖြင့် စောင်းတန်းလှ ထိပ်ဦးသို့၊ ရောက်၍ ဆွေမျိုးဉာတကာ၊ ရာဇာစိုးမင်းတို့ ဂုဏ်ကျေးဇူးဖြင့် တစ်ခါတစ်ခေါက် အခွင့်မထောက်သောကြောင့် မရောက်မပေါက်ခဲ့ရဖူးသော အရပ်ထူးအရပ်မြတ်၊ မွေတော်ဓာတ်တို့ ကိန်းဝပ်တော်မူရာသို့၊ အသက် ၆၀ ကျော်မှ ဆရာသမား၏ အာနုဘော်ကြောင့် ကံပေါ်၍ ရောက်ရပေသည်ဟူ၍ ကြံဆင်ခြင်ကာနေသည့်အတွင်း အရှေ့လောကဓာတ်၊ ဝိဒေရပ်က၊ တက်လတ်သော အရုဏ်ရောင်သည်။ ပြောင်ပြောင်ဝင်းဝင်း၊ ထိန်ထိန်လင်းလင်းသည်နှင့်၊ ဆောင်ကြဉ်းခဲ့သော ဆွမ်းဘောဇဉ်ချိုချဉ်ရသာ ခဲဖွယ်စသည်များကို ကောင်းမွန်စွာ ကပ်လှူ၍ ရှစ်ပါးသောအရပ်မျက်နှာသို့ လက်ျာရစ်သုံးကြိမ်တိုင်တိုင် လှည့်ပတ်၍ လေးမြတ်စွာ ရှိခိုးပူဇော်ပြီးလျှင် စေတီရင်ပြင်တော်တွင် တံမြက်တလင်း သုတ်သင်ရှင်းလင်းပြီးမှ ဆရာဒကာ လှည့်လည်ကာ ပြန်လာကြကြောင်း၊ သိရှိရပါသည်။ (မူရင်းစာသား)

**ဇာတ်လမ်းမှာ ထိုမျှသာမကသေးပါ၊ ရွှေတိဂုံသို့ လျှပ်တစ်ပြက်အတွင်း ကြွတော်မူပြီးနောက် ထိုတစ်ခဏချင်းမှာပင် ရွာသို့ပြန်ရောက်ပြီးလျှင် ဆွမ်းခံတော်မူလေသည်။ ထိုအချက်ကို အောက်ပါအတိုင်း ကြည်ညိုခွင့်ရပါသည်။**

ပြီးသော်၊ အလျှင်မကြာ၊ သီးလုံးရွာအနီး၊ ဂေါစရဂါမ်၊ ဆွမ်းခံနေကျဖြစ်သော ပလိုင်းရွာကြီးသို့ ရောက်တော်မူလျှင် ဆွမ်းခံဝင်ရန် အချိန်သင့်သည်နှင့် ရပ်လင့်တော်မူ၍ ဒါယကာကြီး ဆွမ်းခံချိန်ရှိသေး၏ ဆွမ်းခံဝင်ရမည် သပိတ်အားပေးအပ်လော့ဟု မိန့်တော်မူသည်။

အရှင်ဘုရား၊ ဤရွာသည် အဘယ်ရွာခေါ်ပါသနည်း လျှောက်သော် ဤရွာသည် ငါနှင့်ဒါယကာကြီးတို့ နေ့စဉ်မပြတ်ဆွမ်းရပ်နေကျဖြစ်သော ပလိုင်ရွာပဟု မိန့်တော်မူလျှင် အရှင်ဘုရား ဤအရာသည် အံ့ဖွယ်သရဲ ရှိလှပေ၏ဟု လျှောက်ထားလေသော်

ဒါယကာကြီး ဤသို့သော အကြောင်းအရာများကို သူတစ်ပါးတို့အား မထင်မရှားပါလင့်၊ ဤအရေးကိစ္စတွင် ဒါယကာကြီးနှင့် မစပ်မဆက် တစ်ယောက်တည်း သက်သက်ဖြင့် ကုသိုလ်ပြုနိုင်ဖွယ် မမြင်မထင်သောကြောင့် သိရလေသည်။ သို့ဖြစ်၍ သူတစ်ပါးတို့အား ထင်ရှားခြင်းမှ၊ ကာကွယ်စောင့်ရှောက်လေတော့ ဒါယကာကြီးဟု နှုတ်ပိတ်တော်မူ၏။ (မူရင်းစာသား)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၁-၇၂)

ထိုအချက်တို့ကို သီးလုံးဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်က မသိခဲ့ရပါ။ နောင်မှ သိရှိရသည်ဟုသိရပါသည်။

ကပ္ပိယကြီးသည် ရှည်ကြာ စည်းစောင့် မအောင့်နိုင်လေသောကြောင့် တစ်ဆင့်က တစ်ဆင့် စဉ်တိုင်း လွှင့်သဖြင့် လေသင့်သော ပညာရှိတို့ ကြားသိကြရပေသတည်း။ (မူရင်းစာသား)

( ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၂ )

**သီးလုံးဆရာတော်ဘုရားကြီး၏ အမွေခံတပည့်ကောင်းတစ်ပါးမှာ မင်းကွန်းသထုံ မူလဇေတဝန် ဆရာတော်ဘုရားကြီးဖြစ်ကြောင်းသိရှိရပါသည်။**



(ကျမ်းကိုး။ တောင်တွင်း ဘိက္ခု၊ အရှင်တိက္ခာစာရ၊ မူလမင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီး၊ ထေရုပ္ပတ္တိ၊ ဒုတိယအကြိမ်၊ ၁၉၉၂ ခု၊ ဩဂုတ်လ၊ ဟံသာဝတီ စာအုပ်တိုက်၊ စာ ၁၃၂ ၁၃၃)

**ထိုမင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီး၏ တပည့်သာဝကများထဲတွင် အများရှင်လူ သိကြသော တပည့်ကောင်းများ စာရင်းတွင် တစ်ပါးမှာ အလွန်ထင်ရှားသော ရဟန္တာ ဆရာတော်ကြီးဖြစ်သော တောင်ပုလုဆရာတော်ဘုရားကြီးဖြစ်ကြောင်း၊ အခြားတစ်ပါးမှာ ပရိနိဗ္ဗာန်ပြုပြီးနောက်မှ၊ ဓာတ်တော်များ ထူးခြားစွာ ပွင့်ပေါ်တော်မူခဲ့သော မဟာစည် ဆရာတော်ကြီး ဦးသောဘနဖြစ်ကြောင်း သိရပါသည်။**

(ကျမ်းကိုး။ တောင်တွင်း ဘိက္ခု၊ အရှင်တိက္ခာစာရ၊ မူလမင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီး၊ ထေရုပ္ပတ္တိ၊ ဒုတိယအကြိမ်၊ ၁၉၉၂ ခု၊ ဩဂုတ်လ၊ ဟံသာဝတီ စာအုပ်တိုက်၊ စာ ၁၃၂ ၁၃၃)

ဤရွေ့ဤမျှ အစဉ်အလာကြီးမားသော သီးလုံးဆရာတော်ဘုရားကြီး၏ ဆရာစဉ်ဆက်သည် လွန်စွာပင်အရေးပါလှသည်ဟု ထင်မြင်မိပါသည်။ ထို့ကြောင့် သီးလုံးဆရာတော်ဘုရားကြီး၏ ဆရာစဉ်ဆက်ကို ရှာဖွေသောအခါ အောက်ပါအတိုင်းတွေ့ရှိရပါသည်။

ရဟန်း (၁) ဝါမျှ ရရှိလျှင် ဆရာတော်ဘုရားကြီး၏ ဩဝါဒအတိုင်း အမရပူရ ရာဇဌာနီမင်းနေပြည်ကြီးသို့ ကြွရောက်တော်မူ၍ မင်းအိုဆရာတော်၊ ဆုံထားဆရာတော်၊ မင်းရွာဆရာတော်စသော ဆရာတော်ဘုရားကြီးများထံ နည်းနာခံခဲ့သည်ဟု သိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀)

ထို့ကြောင့် သီးလုံးဆရာတော်ဘုရားကြီး၏ ငယ်ဆရာများမှာ (၁)၊ မင်းအိုဆရာတော်၊ (၂) ဆုံထားဆရာတော်၊ (၃) မင်းရွာဆရာတော်စသော ဆရာတော်များဖြစ်ကြောင်းသိရပါသည်။ ထိုဆရာစဉ်ဆက်၏ မဟာထေရုပ္ပတ္တိကို ခြေရာခံရပြန်ပါသည်။ ထိုအခါ အောက်ပါအတိုင်းတွေ့ရပြန်ပါသည်။

## မင်းအို ဆရာတော်

ကျမ်းရိုးကျမ်းတက် ဆိုရိုးသူမတူတန်အောင် ကောင်းလှသည်ဟု သီလဝိသောဓနီကျမ်း၌ ဖော်ပြချက်အတိုင်း ပိဋကကျနလှသော မင်းအိုဆရာတော်သည် ကျော်အောင်စံထား ဆရာတော်တပည့်ဖြစ်၍ အရုံဂိုဏ်းနွယ်လည်းဖြစ်သည်။ တောင်ဖီလာပုဂ္ဂိုလ်ကျော် တပည့် ရေမိန်ရှင်ကလျာဏဇေတပည့်နွယ်လည်းဆိုကြ၏။ မင်းအို၏ ဆရာစဉ်များမှာ ပုဘဆရာတော်၊ ၎င်း ဆရာနှောင်းဘရှင်ဓမ္မာနန္ဒ၊ ၎င်း ဆရာ ဝါကျဉမင်တောရ ရှင်အဂ္ဂဓမ္မာလင်္ကာရစသည့် ပုခန်းဆက်သာသနာဝင်တို့ဖြစ်သည်။

၁၇၀၉ ဘိုးတော်လက်ထက် သာသနာပိုင် ၄ ပါး တစ်ပြိုင်နက်တင်ခဲ့ရာ၌ အကြီးဆုံး ဆရာတော်ဖြစ်သည်။ ၁၀၇၀ ပြည့်နှစ်ဖွား၊ ပုခန်းကြီးမြို့ကျေး၊ တောကျေးကန်ရွာဇာတိ။ လူအမည် ဦးအောင်ကျော်၊ ရှင်ဘွဲ့ ဂုဏာသီရိ။ (ဂုဏာလင်္ကာရလည်းဟူ၏)

ရေစကြိုမြို့ မင်းအိုကျောင်းတိုက်အမည်ဖြင့် မင်းအိုဆရာတော်တွင်သည်။ ချောင်းကောက် ရှင်သဒ္ဒနန္ဒီထံ၌လည်း ပညာသင်ကြားခဲ့သည်။



၁၇၄၈ ၁၁၁ဝ ခုနှစ်က ကျော်အောင်စံထားဆရာတော် ညောင်ကန်သို့ ကြွရောက် သာသနာပြုရာတွင် တပည့်ကြီးအဖြစ်လိုက်ပါသည်။ ၂၈ နှစ်ကြာမျှ ညောင်ကန်တွင် စာပေပို့ချသာသနာပြုခဲ့ရာ တပည့်များစွာထွန်းကားသည်။

၁၇၇၅ သက်တော် ၆၈ နှစ် အရွယ်တွင် စဉ့်ကူးမင်းက (၁၁၃၇ ခုနှစ်)အင်းဝသို့ ပင့်ဆောင်ကိုးကွယ်သည်။ စဉ့်ကူးမင်းမယ်တော်က စစ်ကိုင်းဘက်၌ ဝေဠုဝန် ငါးထပ် ကြီးဘုရား အနောက်မျက်နှာတွင် အရံတံတိုင်း မီးတားနှစ်ထပ်ခြံလျက် လေးထပ် ဇေတဝန်ကျောင်းတော် ဆောက်လှူသည်။

ညောင်ကန်ရှိကျောင်းကို တပည့်ရှင်သဒ္ဓမ္မရံသီအား လွှဲအပ်သည်။ ယင်း ဆရာတော်မှာ မင်းအိုရွာဇာတိဖြစ်သည်။ ဘကြီးတော်လက်ထက် သီရိသဒ္ဓမ္မာဘိ ပရမဇေမဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့ဖြင့် အင်းဝအောင်မြေဘုံကျောင်းတော် ဆောက် လှူသည်။ မင်းအိုဆရာတော်ကြီးတွင် ဗားကရာ တိပိဋကလင်္ကာရ ရှင်နန္ဒမာလာ၊ မောင်းထောင်ရွာရှင်ဉာဏာဘိဝံသ၊ အလုံဂိုဏ်းအုပ် ရှင်အဂ္ဂဓမ္မာလင်္ကာရစသည့် တပည့်များ ထူးချွန်ပေါ်ထွက်ခဲ့သည်။

၁၇၉၁ ၁၁၅၃ ခုနှစ် သက်တော် ၈၃ တွင် ပျံလွန်တော်မူသည်။

(ကျမ်းကိုး။ ပုခန်း သာသနာဝင် လယ်တီ ဦးလှပိုင်၊ ၁၃၃၉ ခု၊ စာ ၁၇၄-၁၇၅)

## ဆုံထားဆရာတော်

ဘိုးတော်လက်ထက်တွင် သာသနာပိုင် လေးပါးတွင်ပါဝင်တော်မူသည်။

၁၇၁၈ ၁ဝ၈ဝ ပြည့်ဖွား၊ နံစနေ၊ ဇာတိ၊ အနောက်တိုက်ပေါက်မြင်ဆုံထားရွာ၊ ငယ်အမည် ဦးစံဘလူး၊ ဘွဲ့နန္ဒမာလာတည်း၊ ရေမိန်ရှင်ကလျာဏဇေတပည့်ဖြစ်သည်။ စလင်းမြို့တွင်နေစဉ် အတင်ဂိုဏ်းနှင့်စပ်၍ ကျမ်းရေးခဲ့သည်။

ယင်းကျမ်းကို တိလောကဂုရု ထန်းတပင်ဆရာတော်မှတစ်ဆင့် စဉ့်ကူးမင်းထံ တင်သွင်းရာ သဘောနှစ်ခြိုက်၍ အင်းဝသို့ပင့်ဆောင်ကိုးကွယ်သည်။

ဘိုးတော်သားတော် အိမ်ရှေ့မင်းဆရာဖြစ်၍ ကျောင်းရံများနှင့်တကွ လေး ထပ်ဇေတဝန်ရွှေကျောင်းတော်သို့ ဘုံကျော်ဝေယန်သမုတ်၍လည်းကောင်း၊ အိမ်ရှေ့ မိဖုရားကျောင်းတော်ကို မင်္ဂလာဝေယန် သမုတ်၍လည်းကောင်းတင်လှူသည်။ တိပိဋကလင်္ကာရ သဒ္ဓမ္မသာမိ မဟာဓမ္မ ရာဇာဓိရာဇဂုရု တံဆိပ်တော် ကပ်လှူသည်။

ဆရာတော်သည် ပစ္စည်းဥစ္စာ၌ ငါ့ဖို့သူ့ဖို့ဟုမဝေဖန်၊ သူတစ်ပါးအဖို့ချည်း ရည်မှတ်လေ့ရှိသည်။ ကျမ်းရိုးနိုင်နင်းတော်မူသည်။ မင်းအိုနှင့် ဆရာတူဖြစ်သည်။

(ကျမ်းကိုး။ ပုခန်း သာသနာဝင် လယ်တီ ဦးလှပိုင်၊ ၁၃၃၉ ခု၊ စာ ၁၇၅-၁၇၆)

## မင်းရွာ ဆရာတော်

ဤဆရာတော်သည်လည်း ဘိုးတော်လက်ထက်က သာသနာပိုင်လေးပါးတွင် တစ်ပါးအပါအဝင်ဖြစ်သည်။

၁၇၂၃ ၁ဝ၈၅ ခုနှစ် ပုခန်းကြီးမြို့ ကျေးမင်းရွာဇာတိ၊ ငယ်မည်ဦးစံသာ၊ နံ အင်္ဂါ၊ ဘွဲ့ -



ရှင်ဇာဂရ၊ ကျော်အောင်စံထားဆရာတော်၏တပည့်တည်း။

စဉ့်ကူးမင်းလက်ထက်က စစ်ကိုင်းမြို့ နှမတော် ကန္ဒီမြို့စားမင်းသမီး ကောင်းမှုတော် လေးထပ်ဇေတဝန်ရွှေကျောင်းတော်ကို ရတနာရွှေဘုံကမ္ဗည်းတပ်၍ တင်လှူသည်။ ၁၁၄၉ ခုနှစ် ဘိုးတော်မင်းတရားလက်ထက် ကျောင်းရုံနှစ်ဆယ်နှင့် ဘုံသုံးထပ် ရွှေကျောင်းတော်ကို မင်္ဂလာစံလွှတ် ကမ္ဗည်းတင်လှူသည်။ "ဉာဏဓဇ္ဇဒီပ အနန္တဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ကိုလည်းအလှူခံသည်။ ကျမ်းဂန် အရအမိန့် များသည်။ ဝိနည်းကိုလေးစားလှသည်။ ဆွမ်းဘုဉ်းပေးလျှင် ဟင်းလျာကို အာရုံမပြု။ မျက်စိမှိတ်နှိုက်မိရာဟင်းလျာကိုသာ ဘုဉ်းပေးလေ့ရှိတော်မူသည်။ ဆွမ်း စားပြီးလျှင် ပလုပ်ကျင်း၍ ထိုနေ့တာစားခြင်းကိစ္စပြီးသည်။ မင်းဆရာဖြစ်သော်လည်း သိက္ခာ ၅၀ ကျော်တိုင်အောင် ပိဏ္ဍပါတ်ခူတင် ဝတ်မပျက်၊ နေပူမိုးရွာ ဖိနပ်မစီး ထီးမဆောင်း၊ သပိတ်တစ်လုံး၊ သင်္ကန်းသုံးထည်အမြဲဆောင်သည်။ ဇာတိရွာကို အစွဲပြု၍ မင်းရွာဆရာတော်ဟုထင်ရှားသည်။

၁၇၅၄ ၁၁၆၆ ခုနှစ်၊ သက်တော် ၈၁ နှစ်အရွယ်လွန်သည်။ လွန်စဉ် မုန်တော ဆရာတော်ဟောသော သတိပဋ္ဌာန်တရားကိုနာကြားရင်း ပျံလွန်သည်။

(ကျမ်းကိုး။ ပုခန်း သာသနာဝင် လယ်တီ ဦးလှပိုင်၊ ၁၃၃၉ ခု၊ စာ ၁၇၆)

## အနာဂါမ် အလယ်တောရ ဆရာတော်

ဤသို့ သီးလုံးဆရာတော်ကြီး ဟောကြားတော်မူသော တရားတော်ကို မှတ်သားနာယူ ကြသော တပည့်အများတွင် တစ်ပါးအပါအဝင်ဖြစ်သော အလယ်တောရဆရာတော် ဦးမဥ္ဇူသာသည်လည်း တစ်ပါးသော နဝကမ္မကိစ္စများတွင် ကြောင့်ကြမပြု လျစ်လျူရှု လျက် သတိပဋ္ဌာန်ဒေသနာတော် လာရှိသောအတိုင်း ပဋိပတ္တိအကျင့်မြတ် အပ္ပမာဒ တရားများ၌သာ ကြောင့်ကြစိုက်၍ နှေ့ညမကွာ အားထုတ်လာခဲ့ရာ ထိုအလယ်တောရ ဆရာတော်ဘုရားကြီးသည်လည်း သဘောကျ ကျေနပ်လောက်သော ဉာဏ်အမြင်မှန် ရခဲ့လေသည်။ မင်းကွန်းဌာနတစ်ရပ်လုံးမှ ထိုအလယ်တောရဆရာတော် ဦးမဥ္ဇူသာကို အနာဂါမ်ဆရာတော်ကြီးဟူ၍ ယုံကြည်လေးစား၍ အားထားလျက် နှစ်သက်ကော်ရော် ပူဇော်ဆည်းကပ်ကြလေသည်။ (မှတ်ချက်) အလယ်တောရဆရာတော် ဦးမဥ္ဇူမှာ သီးလုံးဆရာတော်ကြီး၏ ကိုရင် ကျောင်းသားဘဝ ငယ်စဉ်မှစ၍ နောက်လိုက်မကွာ တပည့်ရင်းချာဖြစ်သတဲ့။

(ကျမ်းကိုး။ တောင်တွင်းဘိက္ခု အရှင် တိက္ခာစာရ စာ ၁၃၀ - ၁၃၁)

အထက်ပါ လေ့လာချက်များမှာ သီးလုံးဆရာတော်ဘုရားကြီး၏ ငယ်ဆရာတော်သုံးပါး လေ့လာချက် ဖြစ်ပါသည်။

ယနေ့တိုင် ရုပ်ကလာပ်တော်ရှိသေးသော ဦးပညာ အမည်ရှိ

# ၃၀ – ရဟန္တာ ဦးလိပ်

(၁၈၆၄ ခန္ဓာဝန်ချသည်ဟု ခန့်မှန်း)





ရန်ကုန်မြို့ တစ်ဖက်ကမ်းတွင် ဒလမြို့ ဟူ၍ရှိ၏။ ထိုဒလမြို့တွင် ရဟန္တာဦးလိပ်ဟူ၍ ရှိခဲ့ဖူးကြောင်း သတင်းစကားကြားရပါသည်။ အသေအချာ စုံစမ်းသောအခါ ဒလရဟန္တာမထေရ်မြတ်၏ဘွဲ့တော်မှာ ဦးပညာဖြစ်ကြောင်းသိရှိရပါသည်။ ရန်ကုန်မြို့ တစ်ဖက်ကမ်း ဒလမြို့ ရွှေစာရံစေတီတော်ကြီးသည် မြို့မဇေယျဝတီကျောင်းတိုက်အတွင်း၌ တည်ရှိသည်။ ထိုစေတီတော်အနီး စံကျောင်းထက်ဝယ် ရဟန္တာဟု ကျော်ကြားသော ဦးလိပ်ခေါ် ဦးပညာမထေရ်၏ ရုပ်ကလာပ်တော် အပူဇော်ခံထားသည်မှာ နှစ်ပေါင်း ၁၂၀ ကျော်ပေသည်။

(ကျမ်းကိုး။ မောင်ယဉ်မွန် (ဒလ)၊ ဒလမြို့ရှိ ရဟန္တာ ရုပ်ကလာပ်တော်၊ မြတ်မင်္ဂလာမဂ္ဂဇင်း ၁၉၈၇ ဇန်နဝါရီလ)

## ပုံးဒဏ်ကြောင့် ရဟန္တာကြီးပေါ်လာခြင်း

ဒုတိယကမ္ဘာစစ် ပုံးဒဏ်ကြောင့် ပျက်စီးသော ရွှေစာရံစေတီတော်နှင့် ရှစ်ပေမျှကွာသော ရဟန္တာဂူကြီးသည်လည်း အစိပ်စိပ်အမွှာမွှာ ကွဲအက်ပျက်စီးသည်မှာ (၁၈)နှစ်ခန့်ကြာပြီဟု သိရှိရပါသည်။

၁၉၆၂ အေဒီ ၁၉၆၂ ခု မတ်လ ၂၀ ရက်၊ အင်္ဂါနေ့ (၁၃၂၃ ခုနှစ်၊ တပေါင်းလပြည့်နေ့)၌ ဒလမြို့ဈေးလမ်းရပ်နေ ဒါယိကာမကြီး ဒေါ်ထင်သည် ဘုန်းကြီးထံသို့ လာရောက်လျှောက်ထားသည်မှာ 'အရှင်ဘုရား . . . ရဟန္တာဂူကြီး ပျက်စီးယိုယွင်းနေသည်ကို မြင်ရတာ စိတ်မကောင်းပါဘူးဘုရား။ အရှင်ဘုရားဦးစီး၍ ပြုပြင်ရန် ဝတ္ထုတစ်ထောင်မ,တည်ငွေအဖြစ်ဖြင့် လှူဒါန်းပါသည်' ဆို၍ လှူဒါန်းသွား၏။

(ကျမ်းကိုး။ ဒလမြို့၊ မြို့မဇေယျဝတီဆရာတော်၊ ရေးသားစီရင်သော၊ ဦးပညာအမည်ရှိ ဒလရဟန္တာမဟာထေရ်၏ ထေရုပ္ပတ္တိစာတမ်း။ စာ ၈)

## ရဟန္တာကြီးပေါ်တော်မူသည်ဟု အုတ်အော်သောင်းတင်းဖြစ်ခြင်း

၁၉၆၂ လှူဒါန်းပြီးနောက် ၁၉၆၂ ခု မတ်လ ၂၀ ရက်၊ အင်္ဂါနေ့၊ (၁၃၂၃ ခုနှစ်၊ တပေါင်းလပြည့်ကျော်၊ ၁၂ ရက်) နေ့မှစ၍ လူပေါင်းများစွာဖြင့် တူးဖြိုရှင်းလင်းရာ ၁၉၆၂ ခု၊ ဧပြီလ ၈ ရက်၊ တနင်္ဂနွေနေ့ (တန်ခူးလဆန်း ၄ - ရက်နေ့) နေ့လယ် (၁) နာရီအချိန်တွင် ကြေးခေါင်းကြီးကို ထုတ်ယူသည်ဟုသိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၈)

တန်ဆောင်းအတွင်း ညောင်စောင်းပေါ်တွင် ကြေးခေါင်းကြီးကို ခေတ္တထားရာ သန်းခေါင်ကျော်အောင် ဖူးမြော်သူမစဲဘဲ ပြည့်ကျပ်နေသဖြင့် ပရိသတ်ကို တောင်းပန်၍ အပြင်သို့ ခေတ္တထွက်ပေးရန်မေတ္တာရပ်ခံပြီးလျှင် ကြေးခေါင်းကြီးထဲမှ ရုပ်ကလာပ်တော်ကို ဖွင့်လှစ်ကြပါသည်ဟု သိရပါသည်။

ထိုအခါ မျက်နှာတော်အခြေအနေကို သိလို၍ မျက်နှာတော် ပေါ်ရှိကျပ်ကို ချိုး၍ ကျပ်ကြိုးကို ဖြည်ပြီးလျှင် အဝတ်များကို ဖယ်ရှားဖွင့်လှစ်သောအခါ မဏိဥကျောင်းတော်၌ ရွှေပြည့်ချထားသည်ကိုလည်းကောင်း မျက်နှာတော် ပုံမပျက်သည်ကိုလည်းကောင်း ဖူးတွေ့ရသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၈)



ဒလမြို့ ရွှေပေါက်ကျောင်းတွင် ပူဇော်ထားသော ဆရာတော်ဦးလိပ်၏ ရုပ်ကလာပ်တော်

## ၉၇ နှစ် ကြာသော်လည်း ပုံမပျက်ခြင်း

တူးဖော်ရှင်းလင်းခြင်းမပြုမီအခါက ထင်မှတ်သည်မှာ နှစ်ကာလ (၉၇) နှစ်ခန့်ရှိသောကြောင့် အရိုး၊ အသား ကျပ်ကြိုး ကျပ်ဝါးများ ဆွေးမြည့်ကြေမွလျက် ကြေးခေါင်းကြီးလည်း ပိပြားနေလိမ့်မည်ဟု ထင်မှတ်ကြသည်။ ထိုသို့ ထင်မှတ်သည့်အတိုင်း မဟုတ်ဘဲ ကျပ်ကြိုး ကျပ်ဝါးများလည်းမဆွေး၊ မျက်နှာတော်လည်း ပုံမပျက်တွေ့ရသဖြင့် အံ့ဩဖွယ်ဖြစ်ပေသည်။

## ၂၆ ရက်ကြာ အပူးခံပြီးနောက် သစ်စေးသရိုးကိုင်၍ ရွှေချခြင်း

ဖူးမြော်သူ အလွန်များသောကြောင့် မျက်နှာတော်လောက်ကိုသာဖော်လျက် ရွှေချပြီးနောက် မှန်ခေါင်း၌သွင်းလျက် အဖူးမြော်ခံထားသည်မှာ (၂၆)ရက်ခန့်ကြာရှိ၏။

> ၎င်းရက်အတွင်း၌ နေအလွန်ပူသောကြောင့် လက်ဝဲဘက်နားရွက်တော်အထက်မှ အနည်းငယ်ကွဲအက်လျက် အရည်များယိုထွက်လာသဖြင့် ဖူးမြော်လိုသူတို့ နှစ်ကာလကြာရှည်စွာ ဖူးမြော်နိုင်ကြရန်မလွယ်။ သို့အတွက် လက်မှုအတတ်ပညာရှင်များနှင့် တိုင်ပင်ဆွေးနွေးပြီးလျှင် သစ်စေးသားရိုး မွမ်းမံချယ်လှယ်၍ ကိုယ်တော်အလုံး ရွှေသင်္ကန်းတော် ဖုံးလွှမ်းပူဇော်၍ အဖူးမြော်ခံရလျှင် ကောင်းလိမ့်မည်ဟု သဘောရသောကြောင့် ရန်ကုန်ငါးထပ်ကြီးရပ်ကွက်၌နေသော မှန်စီရွှေချဆရာကြီး ဦးဘိုးအောင်ကိုခေါ်၍ ပြုလုပ်စေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉)



## ကြေးခေါင်းထဲမှ ရှေးဟောင်းပိုက်ဆံများတွေ့ရှိခြင်း

ကြေးခေါင်းကြီးထဲမှ တွေ့ရှိရသော ပစ္စည်းများမှာ အောက်ပါအတိုင်း ဖြစ်သည်ဟု သိရပါသည်။

ဂူကြီးအတွင်းမှ ကြေးခေါင်းကြီးကို ထုတ်ယူသောအခါ ခေါင်းပတ်လည်၌ ပူဇော် လှူဒါန်းထားကြသော ဝတ္ထုပစ္စည်းများမှ ကြေးနီပိုက်ဆံအပြား (၁၇၅)ပြား၊ ငွေဒင်္ဂါး (၂)ပြား၊ ငွေမတ်စေ့(၃၅)ပြား၊ ငွေမူးစေ့(၇၆)ပြားကို တွေ့ရသည်။ အလောင်းတော် မြတ် ခံတွင်းပါးစပ်မှ မောင်းကွင်းလက်စွပ်ခေါ် မိုးကြိုးလက်စွပ်(၇၁)ခုကို တွေ့ရသည်။ ၎င်းအပြင် ဘာပစ္စည်းမှ မတွေ့ရပေ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉ )

ဤသို့ဖြင့် ဒလရဟန္တာဟူ၍ကျော်ကြားသော ကိုယ်တော်ကြီး၏ သတင်းသည် တစ်ကျော့ပြန် ပြန်လည်ဆန်းသစ်လာခဲ့လေသည်။ သို့သော်လည်း ရဟန္တာကိုယ်တော်မြတ်ကြီး၏ အကြောင်းအရာကိုကား သိသူမများလှချေ။

သို့သော်လည်း မြန်မာလူမျိုးများမှာ ဗုဒ္ဓဘာသာပီပီ သဒ္ဓါတရား လွန်ကဲထူးမြတ်သူများဖြစ်၍ ဒုတိယကမ္ဘာစစ်ကြီးအတွင်းမှ ဗုံးဒဏ်ကြောင့် ပျက်စီးသွားသော နေရာများအတွင်းမှ ပြန်လည်ပေါ်ပေါက်လာသော ရဟန္တာကိုယ်တော်မြတ်ကြီး၏ ရုပ်ကလာပ်တော်နှင့်စပ်လျဉ်း၍ ပိုမိုပြီး သဒ္ဓါပေါက်ကာ အလှူဒါယကာများ ပေါ်ပေါက်လာခဲ့လေသည်။

သို့ဖြင့် တစ်စတစ်စ သတင်းပြန့်ပွားလာရာ ရဟန္တာအရှင်မြတ်ကြီး၏ အခြင်းအရာတို့မှာ ပုံပြင်မဟုတ်ဘဲ တကယ့်ဖြစ်ရပ်မှန်အဖြစ် သိရှိလာရလေသည်။ ဒလမြို့ မြို့မဇေယျဝတီကျောင်း၏ လက်ရှိ ပဓာန နာယက ဆရာတော်ကြီးကိုယ်တိုင် ပြန်လည်မိန့်ကြားသောစကားများကို တစ်ဆင့် ပြန်လည်၍ ဖောက်သည်ချပါမည်။

## ကုန်းဘောင်ခေတ် ပုဂံမင်းလက်ထက်မှ ယနေ့တိုင် ရုပ်ကလာပ်တော်ရှိသေးခြင်း

ရန်ကုန်မြို့မှတစ်ဆင့် ဒလဘက်ကမ်းသို့ ရောက်သွားသောအခါ မြို့မဇေယျဝတီစာသင်တိုက် ဟူ၍ ကျော်ကြားသော ကျောင်းကြီးတစ်ကျောင်းရှိ၏။ ထိုကျောင်းကြီးတွင် မြို့မဇေယျဝတီ ဆရာတော်ကြီး သတင်းသုံးလျက်ရှိ၏။ ၁၀ မိနစ်ခန့် လမ်းလျှောက်သွားရုံဖြင့် ရောက်ရှိနိုင်ပါသည်။

မြို့မဇေယျဝတီ ဆရာတော်ကြီးထံ အဖူးအမြော်ရောက်သောအခါ ဦးပညာအမည်ရှိ ဒလရဟန္တာ မဟာထေရ်၏ ထေရုပ္ပတ္တိစာတမ်းကို ရရှိပါသည်။ ထိုစာတမ်းကို ဒလမြို့မ ဇေယျဝတီဆရာတော်ပင် ပြုစုစီရင်ထား၏။ စာတွေ့ကိုယ်တွေ့အရ သိသင့်သလောက် သိခဲ့ရပါသည်။ ထိုအချက်တို့ကို ပြန်လည်၍ ဖောက်သည်ချပါမည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ ကျောင်း(၄)ဆောင် ဇရပ်တစ်ဆောင်ရှိသော ရဟန္တာကျောင်း သည်လည်းကောင်း၊ ဆက်လျက်ကပ်လျက်ရှိသော မြို့မဇေယျဝတီ စာသင်တိုက်သည် အင်္ဂလိပ်တို့၏ မြေလှန်စနစ် ရှို့မီးကြောင့်လည်းကောင်း၊ ဗုံးဒဏ်ကြောင့်လည်းကောင်း၊ လုံးဝကြေမွပျက်စီးကုန်သည်။

## ဒလ ရဟန္တာ ဦးလိပ်အမည်ခံ ဦးပညာ၏ မဟာထေရုပ္ပတ္တိရုပ်ပုံလွှာ

ဦးလိပ်၏ မိဘများသည် ဘိုးတော် ဗဒုံမင်းလက်ထက် (၁၁၄၄-၁၁၈၁)တွင် ပဲခူးမြို့မှ ဒလမြို့သို့ ရွှေ့ပြောင်းနေထိုင်ခဲ့သည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ မောင်ရွှန်းသစ်၊ မြတ်မင်္ဂလာစာစောင်၊ ၁၉၉၇ ခုနှစ်၊ မေလ၊ ဆရာတော် ဦးလိပ်)



ရဟန္တာအရှင်မြတ်အလောင်းအလျာသည် ပဲခူးမြို့ အိုးဘိုကုန်းရပ်ကွက်၌နေ၏။ မင်းတုန်းမင်းလက်ထက် အင်္ဂလိပ်မင်းတို့ မြန်မာပြည်အောက်ပိုင်းကိုသိမ်းပိုက်၍ ကာလဒေသ မငြိမ်မသက်ဖြစ်ခြင်းကြောင့် ပဲခူးမြို့ အိုးဘိုကုန်းရပ်ကွက်မှ ပြောင်းရွှေ့၍ ဒလသို့ လာရောက်နေထိုင်ကြ၏။

ထိုအခါ ရဟန္တာလောင်း သူငယ်သည် ခုနစ်နှစ်အရွယ်မျှရှိ၏။

ဒလသို့ ရောက်သောအခါ ရွှေပေါက်ပင်ကျောင်း၌ ကျောင်းသားအဖြစ်နှင့် နေ၍ ၁၂ နှစ်အရွယ်၌ရှင်ပြု၏။ ထို့နောက် ရဟန်းပြု၍ ကျောင်းထိုင်နိုင်လောက်သောအရွယ်၌ ရွှေပေါက်ပင်ကျောင်း၌ ကျောင်းထိုင်တော်မူ၏။ ထို့နောက် တစ်စတစ်စဖြင့် အံ့ဖွယ်ဖြစ်ရပ်မှန်များနှင့်အတူ ဆရာတော်ကြီး၏ သတင်းမှာ အဝေးအနီး ပြန့်နှံ့လာသည်ဟု သိရပါသည်။

## ရွှေတိဂုံသို့ အရင်ရောက်နှင့်နေခြင်း အံ့ဖွယ်

ထူးခြားချက်တစ်ခုမှာ ရဟန္တာနှင့်သူငယ်ချင်းများဖြစ်ကြသော ဦးဩကြီးနှင့် ဦးသာဗွန်းတို့သည် တပေါင်းလပြည့်နေ့ ထမင်းစားပြီးလျှင် ရွှေပေါက်ပင်ကျောင်းသို့သွား၍ ရဟန္တာအရှင်မြတ်အား 'အရှင်ဘုရား တပည့်တော်တို့ ရွှေတိဂုံဘုရားကို အဖူးအမြော်သွားမည်ဖြစ်၍ အရှင်ဘုရားလည်းကြွပါ'ဟု လျှောက်ထားရာ 'မင်းတို့သာသွားပါ ငါမလိုက်သေးဘူး'ဟု ဆိုလိုက်၏။

ရွှေတိဂုံတောင်ဘက်မုခ်သို့ ရောက်သောအခါ ဘုန်းကြီးဦးလိပ်သည် ဘုရားပေါ်၌ လက်ျာရစ်ပတ်၍ ဘုရားဖူးမြော်နေသည်ဟူသော သတင်းကို ကြားရ၍ တက်ရောက်ဖူးမြော်ရာ ဘုန်းကြီးဦးလိပ် ဖြစ်နေသည်ကိုတွေ့ရ၏။

ထိုအခါ ဦးဩက ဦးသာဗွန်းအား ရွှေပေါက်ပင်ကျောင်းသို့ သွားရောက်ကြည့်ရှုခိုင်းရာ ကျောင်း၌ ကျိန်းစက်နေသည်ကို တွေ့ရသည်ဆို၏။

ရဟန္တာကိုယ်တော် အိပ်ရာမှနိုးသောအခါ 'အရှင်ဘုရား ငါမလိုက်သေးဘူးဆိုလျက် အရှင်ဘုရားက ရှေးဦးစွာ ရောက်နေသည်ကိုတွေ့ရပါသည်'ဟုဆိုရာ 'ငါမသွားပါဘူး စိတ်ကတော့ကူးမိတယ်'ဟု ဆို၏။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၄ - ၅)

## အဘယ်ကြောင့် မောင်လိပ်ဟု ခေါ်ကြပါသနည်း

ဆရာတော်၏ ဘွဲ့အမည်တော်မှာ ဦးလိပ်ဟု အမည်ရှိသဖြင့် အလွန်ထူးဆန်းသောကြောင့် မေးလျှောက်ရာ အောက်ပါအတိုင်း သိရပါသည်။

ရဟန္တာအရှင်မြတ်၏ ဘွဲ့တော်မှာ ဦးပညာအမည်ရှိ၏။ လူနာမည်မှာ ဦးလိပ်ဖြစ်၏။ ဦးလိပ်ဟု အမည်နာမမှည့်ခေါ်ရခြင်း၏အကြောင်းမှာ ဒါယကာအရွယ် ငယ်စဉ်အခါကာလက ဆန်ကောအတွင်း၌ အနှီးခင်း၍သိပ်ထားစဉ် ဆန်ကောအောက်၌ လိပ်ကြီးရောက်နေသည်ကိုအကြောင်းပြု၍ ထိုသူငယ်အား မောင်လိပ်ဟု မှည့်ခေါ်လေသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၅)

## ဆန်ကောအောက်တွင် လိပ် ရောက်၍လာခြင်းကြောင့် ဦးလိပ်ဟု ခေါ်ကြခြင်းအံ့ဖွယ်

ဆန်ကောအောက် လိပ်ရောက်၍ မောင်လိပ်ခေါ်တွင်သော သူငယ်သည် ကျောင်းသား



အရွယ်၌ ပညာသင်ကြားလျက် သာမဏေပြုလောက်သောအရွယ်၌ သာမဏေပြုပြီးလျှင် ရဟန်းသက်စေ့သောအခါ ရဟန်းပြု၍ ကျောင်းထိုင်နိုင်လောက်သောအရွယ်၌ ဦးပညာကိုယ်တော်သည် ဒလမြို့ ရွှေစာရံစေတီတော်ကြီး၏အနီးရှိ ရွှေပေါက်ပင်ကျောင်း၌ ကျောင်းထိုင်အဖြစ်ဖြင့် သီတင်းသုံးတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅)

## တစ်ချိန်တည်းမှာပင် ရန်ကုန် ဟင်္သာတ ဒလသို့ ဆွမ်းခံကြွခြင်း

ဦးပညာကိုယ်တော်ကြီး၏ ထူးခြားဆန်းကြယ်သော အကြောင်းအရာတို့မှာ မှတ်တမ်းတင်ထားမှသာလျှင် သင့်တော်ပေလိမ့်ဟု ယူဆပါသည်။

ဦးပညာကိုယ်တော်သည် ဥပုသ်နေ့တိုင်း ရွှေတိဂုံစေတီတော်ကြီးအား ကုန်းကြောင်းသွားရောက်ပြီးလျှင် ပန်း၊ ရေချမ်း၊ ဆီမီးတို့ဖြင့် ပူဇော်လေ့ရှိသည်ဟု ဆိုကြ၏။ နံနက် ၉ နာရီအချိန်တွင် ကိုယ်တိုင်ဆွမ်းခံ၍ မှီဝဲလေ့ရှိသည်ဟု ဆိုကြ၏။ တစ်ခါတစ်ခါ ၉ နာရီအချိန်၌ပင်လျှင် ဒလ မော်လမြိုင် ဟင်္သာတ စသောမြို့တို့၌ အချိန်တူဖြစ်လျက် ဆွမ်းခံတော်မူသည်ကို ဖူးတွေ့ရသည်ဟု ဆို၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆)

## ရဟန္တာဟု ကျော်ကြားတော်မူခြင်း

ဦးပညာကိုယ်တော်ကြီး လျှို့ဝှက်စွာ ကျင့်ကြံနေထိုင်သည့် ရွှေပေါက်ပင်ကျောင်းသို့ ဒါယကာ ဒါယိကာမများ အသွားအလာ အဝင်အထွက် အလွန်နည်းပါးသည်ဟုဆိုကြ၏။ နောင်သောအခါမှာ ရဟန္တာဟု ဟိုးလေးတကျော်ကျော် ဖြစ်သည်ဟု ဆိုပါသည်။

ဦးပညာကိုယ်တော် ပျံလွန်တော်မူခါနီးအချိန်ကာလ၌ ရပ်ဝေးမြို့များမှ ဒလမြို့ ရွှေပေါက်ပင်ကျောင်း လူနာမည် ဦးလိပ် ရဟန်းဘွဲ့တော် ဦးပညာအမည်ရှိသော ဘုန်းကြီးသည် ရဟန္တာဖြစ်သည်ဟု အိပ်မက်သဖြင့် အိပ်မက်အရလာရောက်ဖူးမြော်ကြရမှ အဆင့်ဆင့် ကြားသိရသဖြင့် ရပ်ဝေး ရပ်နီးဖြစ်သော မြို့ရွာများမှ ရေလမ်း ကုန်းလမ်းဖြင့် လာရောက် ဖူးမြော်ကြသည်မှာ တိုးမပေါက်အောင် အလွန်စည်ကားလှသည်ဟု သိမှီသော ဆရာကြီး ဦးပို စသော အသက်ကြီးသူတို့က ပြောဆိုကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆)

## နွားများ မြွေများ ကျောင်းပေါ်တက်၍ ဖူးကြ၍ ကျောင်းပြိုကျခြင်း

လူပုဂ္ဂိုလ်များသာ ဖူးမြော်သည်မဟုတ်၊ နွားများ မြင်းများ မြွေသတ္တဝါများကလည်း ကျောင်းပေါ်သို့တက်ရောက်၍ ဖူးမြော်ကြသည်ဟုဆိုကြ၏။ နွားများဖူးမြော်သောအခါ အုပ်လိုက်တတ်ဖူး၍ ကျောင်းပြိုကျသဖြင့် နေ့ချင်းပြီးပြင်သည်ဟု ဆိုကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆ - ၇)



ဦးပညာကိုယ်တော်သည် အရပ်ရပ်မှ လာရောက်ဖူးမြော်သူများ လာရောက်ခြင်းမစဲမီပင် ပျံလွန်တော်မူ၏။ ပျံလွန်တော်မူသောအခါ ရုပ်ကလာပ်တော်ကို ကြေးခေါင်း၌ထည့်သွင်း၍ ပူဇော်ထားသည်ဟု သိရပါသည်။

> ကြေးခေါင်းကို ကြေးပုခက်၌တင်လျက် ကြေးပုခက် ရှစ်ပတ်လည် ကျွန်းတိုင်ကြီးများ အခိုင်အမာဆောက်လုပ်ထားသော နိဗ္ဗာန်ကျောင်း၌ သံဝရန်တာပြုလုပ်၍ သံဝရန်တာ၌ ချိတ်ဖြင့်ချိတ်ဆွဲလျက် အဖူးအမြော်ခံထားသည်ဟုဆို၏။ နှစ်ကာလ မည်မျှ လောက်ကြာအောင်ထားသည်ကိုကားမသိရချေ။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၇)

ထို့နောက်တစ်ဖန် နိဗ္ဗာန်ကျောင်းမှ ပြောင်းရွှေ့၍ အုတ်ဂူတွင်းသို့သွင်းလျက် ကိုးကွယ်ထားကြသည်။ ဂူကြီး၏ ပမာဏမှာ အလျား ၂၁ ပေ × အနံ ၁၈ ပေ × အမြင့် ၂၃ ပေ ရှိ၏။ အလွန်တင့်တယ်သော ရှေးလက်ရာဂူကြီးဖြစ်ပေသည်။

## ပျံလွန်တော်မူသော နှစ်

ရဟန္တာကိုယ်တော်ကြီး ပရိနိဗ္ဗာန်ပြုတော်မူသောနှစ်ကို သေချာစွာမသိရပါ။ သို့သော်လည်း သိမှီသူတို့စကားကို ထောက်ထား၍ တွက်ချက်ယူရပါသည်။

၁၈၆၄ ရဟန္တာကိုယ်တော် ပျံလွန်တော်မူသော နှစ်ပရိစ္ဆေဒမှာ ပုံဆရာကြီး ဦးပိုနှင့် လမ်းမတော်ဒေါ်စုတို့ ပြောကြားသော စကားအရဆိုလျှင် ၁၃၂၃ ခုနှစ်အထိ နှစ်ပေါင်း ၉၇ နှစ်ခန့်ကြာရှိပြီဟု သိရသည်။ ထို့ကြောင့် ထိုရဟန္တာကိုယ်တော် ပျံလွန်တော်မူသော နှစ်မှာ (၁၂၂၆ နှစ်) ခရစ် ၁၈၆၄ ခု၊ ဖြစ်လေမည်လားဟု တွေးတောရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇)

## ရဟန္တာကျောင်းဟူ၍ ကျော်ကြားခြင်း

သည့်နောက်ကာလ၌ ရွှေပေါက်ပင်ကျောင်းကို ရဟန္တာကျောင်းဟူ၍ ခေါ်ဆိုကြသည်။ ရန်ကုန်မြို့၊ ပန်းဆိုးတန်းဆိပ်ကမ်းမှ တစ်ဖက်ကမ်းသို့ကူးလိုက်လျှင် ဒလသို့ရောက်ပါသည်။ ထို့မှတစ်ဆင့်သွားလျှင် အနီးကလေးဖြစ်ပါ၏။

## ရန်ကုန်တစ်ဖက်ကမ်း ဒလ ရွှေပေါက်ပင်ကျောင်းတွင် ဘိုးတော်ပဒုံမင်းလက်ထက်က ရုပ်ကလာပ်တော်ကို ယနေ့တိုင် ဖူးမြော်နိုင်သေးကြောင်း သတင်းကောင်း

(ကျမ်းကိုး၊ မောင်ပန်းမွှေး၊ ကောင်းသတင်းဂျာနယ်၊ အတွဲ ၂၊ အမှတ် ၁၊ ၁၃ - ၁- ၂၀၀၅ ခုနှစ်၊ စာ ၄)

၁၉၆၂ ရဟန္တာဂူကြီးကို ၁၉၆၂ ခုနှစ် ဧပြီလ ၁ ရက်၊ (၁၃၂၃ ခု တပေါင်းလပြည့်ကျော် ၁၂ ရက်နေ့)မှစတင်ကာ တူးဖော်ခဲ့ကြရာ ၁၉၆၂ ခု၊ ဧပြီလ ၈ ရက်နေ့၊ (၁၃၂၄ ခု၊ တန်ခူးလဆန်း ၄ ရက်နေ့ နံနက် ၂ နာရီ)တွင် ဂူကြီးအတွင်းမှ ကြေးခေါင်းကြီးကိုတွေ့ရကြောင်း သိရှိရပါသည်။

ရုပ်ကလာပ်တော်၏ ဦးခေါင်းတော်ကို ရွှေသားအပြည့်ချထားကြောင်း၊ မျက်နှာတော်နှင့် ကိုယ်လုံးတော်သည် ပုံမပျက်တည်ရှိကြောင်း၊ မပုပ်မသိုးရှိနေသည့်



အပြင် အနီရောင်အရည်များ ထွက်လာသည်ကိုတွေ့ရကြောင်း၊ ပျားရည်နှင့် ပရုပ်ရည် ရောစပ်ထားပုံရကြောင်း၊ ပန်းပေါင်းရနံ့၊ ပျားရနံ့၊ ပရုပ်ရနံ့များရရှိကြောင်း သိရှိရပါသည်။ ၎င်းအပြင်ကြေးခေါင်းကြီး၏အတွင်းမှလည်း ငွေငါးမူးစေ့ ၇၆ စေ့ ကိုလည်းကောင်း၊ ငွေမတ်စေ့ ၃၅ စေ့ကိုလည်းကောင်း၊ ကြေးနီပိုက်ဆံပြား ၁၇၅ ပြားကိုလည်းကောင်း၊ ငွေဒင်္ဂါးနှစ်ပြားကိုလည်းကောင်း၊ တွေ့ရှိရကြောင်း သိရှိရသည်။ ၎င်းအပြင် ရုပ်ကလာပ်တော်၏ ခံတွင်းတော်ထဲမှ မိုးကြိုးလက်စွပ် ၇၁ ကွင်းကို တွေ့ခဲ့ရကြောင်း သိရှိရပါသည်။

၁၉၆၂ ထိုကြေးနီ ပိုက်ဆံပြားများမှာ ၁၂၄၀ ပြည့်နှစ်ထုတ် ရတနာပုံ နေပြည်တော် စာတန်းနှင့် တိုးတံဆိပ်စာတန်းဝိုင်းများ၊ တိုးရုပ်များပါရှိကြောင်း သိရှိရပါသည်။ ၎င်းအပြင် ၁၈၄၀၊ ၁၈၆၂၊ ၁၈၈၁ နှစ်များ ပါသော ကြေးပြားနှင့် ငွေမတ်စေ့များလည်း တွေ့ရှိရကြောင်း သိရှိရပါသည်။ ၎င်းနောက် ၁၉၆၂ ခု၊ ဇူလိုင်လ ၈ ရက်နေ့၊ (၁၃၂၄ ခု၊ ဝါဆိုလဆန်း ၇ ရက်နေ့)တွင် ရုပ်ကလာပ်တော်ကို အခမ်းအနားဖြင့် တင်ကာအပူဇော်ခံထားသည်မှာ ယနေ့တိုင်ဖြစ်ကြောင်း စုံစမ်းသိရှိရပါသည်။ စံကျောင်းတော်ကို ဆောက်လုပ်ရာတွင် ငွေ ၇၇၄၉ ကျပ် ကုန်ကျကြောင်း၊ မော်လမြိုင် တောင်စွန်းရပ်နေ ပန်းရံဆရာဦးချစ်လွင်က စီမံပြုလုပ်ခဲ့ကြောင်း၊ ၎င်းနောက် ရန်ကုန်မြို့ ငါးထပ်ကြီးရပ်ကွက်နေ မှန်စီရွှေချဆရာကြီး ဦးဖိုးအောင်ကို ဖိတ်ကြား၍ ရုပ်ကလာပ်တော်ကို သစ်စေး၊ သားရိုးများဖြင့် ပြုပြင်မွမ်းမံခဲ့ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ (၁) ဒလမြို့၊ မြို့မဇေယျဝတီဆရာတော်၊ ရေးသားစီရင်သော၊ ဦးပညာအမည်ရှိ ဒလရဟန္တာ မဟာထေရ်၏ ထေရုပ္ပတ္တိစာတမ်း၊ အမှတ် ၁၉၉၊ လမ်း ၅၀၊ အဲဗားဂရင်း ပုံနှိပ်တိုက်၊ ဦးကျော်စန်းလင်း၊ ဦးသိန်းဦး၊ ဓမ္မဒါန၊ စာအုပ်၊ (၂) မောင်ယဉ်မွန် (ဒလ)၊ ဒလမြို့ရှိ ရဟန္တာ ရုပ်ကလာပ်တော်၊ မြတ်မင်္ဂလာ မဂ္ဂဇင်း ၁၉၈၇ ဇန်နဝါရီလ) (၃) ( မောင်ရွှန်းသစ်၊ ဆရာတော် ဦးလိပ်၊ မြတ်မင်္ဂလာ စာစောင်၊ ၁၉၉၇ ခုနှစ်၊ မေလ) (၄) မောင်ပန်းမွှေး၊ ကောင်းသတင်းဂျာနယ်၊ အတွဲ ၂၊ အမှတ် ၁ ၊ ၁၃ - ၁- ၂၀၀၅ ခုနှစ်၊ စာ ၄) (၅) မောင်ပန်းမွှေး၊ အချစ်ဂျာနယ်၊ အတွဲ ၄ အမှတ် ၃၁၊ ၃၁- ၁၀-၂၀၀၅။)

ရဟန္တာမြတ်ကြီး

# ထွင့်ခေါင်ဆရာတော်

**အေဒီ ၁၇၉၈ – ၁၈၈၀ ( ၁၁၆၀ – ၁၂၄၂ )**





ထွင့်ခေါင်ဆရာတော်၏ မြေး ဝိပဿနာ မဟာဓမ္မကထိက ဝိပဿနာမျိုးစုံ ကျမ်းပြုဆရာကြီး ဦးမြတ်သိန်းထွန်း ကိုယ်တိုင်ရေး ထွင့်ခေါင်အဖွင့်ကျမ်းတွင် အောက်ပါအတိုင်း ဖော်ပြထားရှိပါသည်။

ဘဝရှင်မင်းတရားကြီးလက်ထက် စစ်ကိုင်းဘက် တောင်ရိုး၌
ပထမ - ရတနာထွင့်ခေါင်ချောင်
ဒုတိယ - ရတနာ ဗောဓိချောင်
တတိယ - မဟာသုဒဿချောင်

မဟာသုဒဿချောင်၌ ကမ္မဋ္ဌာန်းတရားပြလျက် ယခုတိုင် သီတင်းသုံးနေမြဲ နေသော ကျေးဇူးရှင်ဆရာတော် ဦးသုဒဿနနှင့် ဆရာကြီး ဦးမြတ်သိန်းထွန်း နောင်တော်ညီတော်တို့၏ ဘကြီးတော်ဖြစ်သော ရဟန္တာမြတ်ကြီး ထွင့်ခေါင် ဆရာတော်ဟူ၍ ဖော်ပြထားကြောင်း ဖတ်ရှုရပါသည်။

(ကျမ်းကိုး၊ ထွင့်ခေါင် ကမ္မဋ္ဌာန်း အဖွင့်ကျမ်း။ ခေတ္တရာ စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ တန်ဖိုး တစ်ကျပ်၊ စာ ၈ )

မြန်မာဘာသာ သာသနာလောကတွင် ဟိုးဟိုးကျော်ခဲ့သော ဆရာကြီးဦးမြတ်သိန်းထွန်းသည် ထွင့်ခေါင်ဆရာတော်ဘုရားကြီး၏ မြေးအရင်းဖြစ်ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ စစ်ကိုင်းသာသနာဝင် စာ၊ ၁၂၇၊ ၁၂၈ တို့တွင် ပထမထွင့်ခေါင်ဆရာတော်အကြောင်း ဖတ်ရှုရသည်မှာ ကြည်ညိုဖွယ်ရာဖြစ်ပါသည်။)

၁၈၁၉ သက်တော် ၂၁ နှစ် ရောက်ရှိရာ အေဒီ ၁၈၁၉၊ (၁၁၈၁ ခုနှစ်)တွင် သီရိပဝရတိလောက မဟာရာဇိန္ဒာ ရတနာဒေဝီ၏ ပစ္စယာနုဂ္ဂဟဖြင့် ဒုလ္လဘကို ရရှိတော်မူခဲ့လေသည်။ ထိုအချိန်တွင် မိခင်ကြီးဒေါ်မေလည်း ကွယ်လွန်ပြီးဖြစ်လေသည်။

၁၈၂၇ ရဟန်းဖြစ်ပြီးနောက် (၈)ဝါ ပြည့်မြောက်သည့်တိုင်အောင် အေဒီ ၁၈၂၇ ခု (၁၁၈၉ ခု)အထိ မန်ကျည်းတော ဆရာတော်ဘုရားကြီးထံ၌ ပိဋကတ်သုံးဖြာ ပါဠိ အဋ္ဌကထာ ဋီကာကျမ်းတို့ကို တစ်ဖက်ကမ်းခတ် တတ်မြောက်အောင် သင်ယူခဲ့ လေ၏။ ပိဋကတ်ကျမ်းဂန် အရပ်ရပ်တို့၌ တတ်မြောက်ကျွမ်းကျင်သူ၏ အဖြစ်သို့ ရောက်လေတော့သည်။

၁၈၂၆ အေဒီ ၁၈၂၆ ခု (သက္ကရာဇ် ၁၁၈၈ ခုနှစ်)တွင် စည်းခုံစကြံ မင်းဝံတောင်ညို နဂိုရ်တောက်ဆိုင်း နောက်မှီခိုင်း၏ စသည်ဖြင့် ထင်ရှားလှသော မင်းဝံတောင်၏ အနောက်တောင်ခြေရှိ စည်းခုံစေတီတော်ကြီးအနီးသို့ ကြွရောက်တော၌ တရားကျင့် တော်မူခဲ့လေသည်။ မကြာမီ မင်းဝံတောင်ရိုးပေါ်ရှိ ရတနာထွင့်ခေါင် စေတီအနီးသို့ ကြွရောက် ပြောင်းရွှေ့တော်မူကာ သီတင်းသုံးတော်မူခဲ့လေသည်။ ထိုအချိန်မှစ၍ ယခုတိုင် ထွင့်ခေါင်ဆရာတော်ဟု ထင်ရှားလေသည်။

ထွင့်ခေါင်တောရမှ မြန်မာ နှစ်တိုင်ခန့် ကွာလှမ်းလှသော မြင်းမွေးတောရကျောင်း၊ လက်လုပ် တောရကျောင်း၊ ပေါက်တောကန်တောရကျောင်း၊ ပဲကတိုင်း တောရကျောင်းတိုက် သီတင်းသုံး တရား ကျင့်တော်မူကြောင်း သိရပါသည်။ ထိုအခါ အံ့ဖွယ်ဖြစ်ရပ်ဆန်းများနှင့် ကြည်ညိုဖွယ်ရာ သိရှိရပါသည်။

## ဆင်များ ဦးနှိမ်ဝပ်တွား ရှိခိုးကြခြင်း



တစ်ခါက ထွင့်ခေါင်ဆရာတော်ဘုရားကြီး တောကျောင်းမှ ဂေါစရဂါမ်ရွာသို့ ဆွမ်းခံအကြွတွင် လမ်းခရီးအကြား၌ ဆင်တစ်အုပ်နှင့် ခရီးရင်ဆိုင်တွေ့လေ၏။ ထိုအခါ ဆရာတော်က လက်ဝါးကို ဖြန့်တော်မူကာ မေတ္တာဘာဝနာကို ပွားများလျက် ငါက မင်းတို့ကို မညှဉ်းဆဲ မင်းတို့ကလဲ ငါ့ကို မညှဉ်းဆဲကြကုန်လင့်ဟု မိန့်ကြားတော်မူ၏။ ထိုအခါ တချို့ဆင်တို့သည် တိမ်းရှောင်ဖဲသွားကြကုန်၏။ တချို့ဆင်တို့သည် ဝပ်တွားဦးနှိမ်ကြကုန်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၉၊ စစ်ကိုင်းသာသနာဝင်လည်း ကြည့်ပါဦး)

## မုဆိုးကြီး မူးမေ့သွားခြင်း

တစ်ခါတွင် ပေါက်တောကန်တောရကျောင်း၌ သီတင်းသုံးတော်မူခိုက် တောချုံ ပုပ္ပွင်းထူထပ်ရာသို့ကြွ၍ နေသန့်တော်မူစဉ် ဖိုးတက်ခါး အမည်ရှိသော မုဆိုးသည် ထွင့်ခေါင်ဆရာတော်ကို တောသတ္တဝါအမှတ်ဖြင့် သေနတ်ဖြင့်ပစ်မည်ပြု၍ မူးမေ့သွားလေ၏။ နောက်တွင် ဖိုးတက်ခါးသည် ဆရာတော်ထံ၌ ရဟန်းပြုလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၀ ၊ စစ်ကိုင်းသာသနာဝင်လည်း ကြည့်ပါဦး)

## တစ္ဆေ မြေဘုတ်တို့ ရှိခိုးဦးတင်ကြခြင်း

တစ်ချိန်ကလည်း ကောင်းမှုတော်စေတီကြီးမြောက်ဘက် တောကျောင်း၌ သီတင်းသုံးစဉ် သုသာန်မှတင် ဆောက်တည်၍ နေရာအနှံ့မကောင်းသည့် တစ္ဆေမြေဘုတ်တို့ကို တွေ့မြင်တော်မူ၏။ တချို့ တစ္ဆေမြေဘုတ်တို့သည် ဆရာတော်အား ရှိခိုးဦးတင်ကြကုန်၏။ တချို့ကမူ ကျောပေး၍နေကြကုန်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၀)

## နန်းမတော်မယ်နု ကိုးကွယ်တော်မူခြင်း

ထွင့်ခေါင်ဆရာတော်ဘုရားကြီးလက်ထက်သည် နန်းမတော်မယ်နုလက်ထက်ဟု ပြောလျှင် မျက်စိထဲတွင် မြင်ယောင်လောက်ပါသည်။ ထိုခေတ်တွင် နန်းမတော်မယ်နုသည် အင်းဝမန်ကျည်းတောဆရာတော်ကြီးကို ကိုးကွယ်လေသည်။ ထွင့်ခေါင်ဆရာတော်ကား ထိုဆရာတော်ကြီး၏ တပည့်ဖြစ်၏။

၁၈၂၇ ရဟန်း ၉ ဝါ အရ အေဒီ ၁၈၂၇ ၊ (သက္ကရာဇ် ၁၁၈၉ )တွင် တောထွက်တော်မူခဲ့၏။ ထိုစဉ်က စစ်ကိုင်းမြို့ မြောက်တောရကျောင်း စည်းခုံစေတီတော်အနီး တောကြီးထဲတွင် သမထ ဝိပဿနာတရားများကို အားထုတ်တော်မူခဲ့လေသည်။ ၎င်းနောက် ရတနာထွင့်ခေါင် စေတီတော်မြောက်ဘက်နေရာသို့ ရွှေ့ပြောင်းပြန်လေသည်။ ထိုအခါ ထွင့်ခေါင်ဆရာတော်လေးဟု ဟိုးဟိုးကျော်ပြန်သည်။ အမည်တော်အရင်းကား အရှင်ဉာဏဝဏ္ဏဓဇဖြစ်၏။

ထိုနေရာတွင် ၅ ဝါ သီတင်းသုံး၏။ ၎င်းနောက် အဆင့်ဆင့် ရွှေ့ပြောင်းပြန်၏။ မြင်းမွေးတောရ



လက်လှုပ်တောရ၊ ပေါက်တောကန်တောရ၊ ပဲကတိုးတောရ၊ ကောင်းမှုတော်တောရ၊ စာရေးတောရ၊ ကျောက်ပန်တောရ၊ ရွှေမြင်တောင်တောရ၊ အုန်းသဇင်တောရ စသော တောရများသည် ထွင့်ခေါင် ဆရာတော် သီတင်းသုံးတော်မူခဲ့သော တောရများဖြစ်ကြောင်းသိရပါသည်။

၁၈၅၂ အေဒီ ၁၈၅၂ (၁၂၁၄ ခုနှစ်) တွင် မင်းဝံတောတန်း မြောက်ဘက်အဆုံး ဆင်မတောင် ချောက်ကြားသို့ ပြောင်းရွှေ့အားထုတ်ပြန်လေသည်။ ထိုလက်ထက်သည် သာယာ ဝတီမင်းလက်ထက်ဖြစ်၏။

၁၈၅၉ ၎င်းနောက် ပုဂံမင်းလက်ထက်သို့ ရောက်ပြန်၏။ ထိုအခါ ထွင့်ခေါင်ဆရာတော်ကို သာယာဝတီမင်းနှင့် မိဖုရား ကျောက်မှန်မြို့စားတို့က ကိုးကွယ်ခဲ့ကြ၏။ အေဒီ ၁၈၅၉ ခု (၁၂၂၁ ခုနှစ်)တွင် မင်းတုန်းမင်းတရားမဖြစ်မီ မင်းတုန်းမြို့စားနှင့် ညီတော် ကနောင်မင်းသားတို့က ကိုးကွယ်ခဲ့ကြပြန်သည်။

ထွင့်ခေါင်ဆရာတော်ဘုရားကြီးနှင့် စပ်လျဉ်းသောနေရာ အထောက်အထားများကို ယနေ့တိုင် ဖူးမြော်ကြည်ညိုနိုင်ပါသေးသည်။

နောင်သောအခါ မင်းတုန်းမင်းတရားကြီးလက်ထက်တွင် စောစောက သီတင်းသုံးခဲ့သော ဆင်မတောင်ချောင်သည် ဓမ္မိကချောင်ဟူ၍ ဖြစ်လာခြင်းဖြစ်လေ သည်။ ယခုအခါ ချောင်အဝင် မုခ်ဝတွင် ဓမ္မိကချောင် ထွင့်ခေါင်ဟူသောစာကို ယနေ့တိုင်တွေ့နိုင်ပါသေးသည်။

လိုဏ်ဂူကြီးအတွင်း၌ ထွင့်ခေါင်ဆရာတော်နှင့် အလွန်တူသည်ဟု သိမှီသူများ ပြောဆိုကြသော ပုံတူရုပ်တုကိုလည်း ယနေ့တိုင်ဖူးမြော်နိုင်ပါသေးသည်။ ထိုနေရာတွင် ရွှေခေတ်လက်ရာများ ယနေ့တိုင်တွေ့နိုင်ပါသေးသည်။

တောင်နံရံတွင် ဆရာတော်ကြီး အားထုတ်ခဲ့သော နေရာကို ယနေ့တိုင် တွေ့နိုင်ပါသေးသည်။ ထွင့်ခေါင်ဆရာတော်သည် အင်းဝခေတ်မှ ရတနာပုံခေတ်အထိ အကိုးကွယ်ခံ ဆရာတော်ကြီး ဖြစ်ခဲ့လေသည်။

(ကျမ်းကိုး၊ ပါရမီ မဂ္ဂဇင်း ၂၀၀၃ ခု၊ ဖေဖော်ဝါရီလ ၊ စာ၊ ၆၁-၆၄၊ မောင်မောင်သက်၊ ရွှေမန္တလေး။)

ကြည်ညိုဖွယ်ရာကောင်းလှသော ထွင့်ခေါင်ဆရာတော်ဘုရား၏ မဟာထေရုပ္ပတ္တိကို လေ့လာ သောအခါ အောက်ပါအတိုင်းတွေ့ရှိရပါသည်။

## ဟသ်ာတမြို့နယ် မြင်းကကုန်းရွာဇာတိ

၁၇၉၈ ဆရာတော်၏ဇာတိကား ဟသ်ာတမြို့နယ် လေးမျက်နှာမြို့အနီး မြင်းကကုန်းရွာ ဖြစ်၏။ မိဘ ဦးလူကြီး၊ ဒေါ်မေ။ အေဒီ ၁၇၉၈ (၁၁၆၀ ပြည့်နှစ်တပေါင်းလပြည့်) အင်္ဂါနေ့ နေတက်ချိန်၌ဖွားသည်။ ငယ်မည်မှာ မောင်စို၊ သားချင်းမှာ အစ်မ မငွေ တစ်ဦးသာ ရှိ၏ဟု မှတ်တမ်းရှိ၏။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ စာ ၁၅၇။)

မောင်စို အသက် ၁၃ နှစ်ရောက်သောအခါ ရှင်သာမဏေပြု၏။ ဘွဲ့တော်မှာ ရှင်ဉာဏဝံသ ဖြစ်၏။

၁၈၁၈ ရှင်ဉာဏဝံသသည် ရှင်သာမဏေဘဝဖြင့် ပိဋက သင်ရိုးပေါက်ကာ သုဓမ္မာပထမပြန်ပွဲ



ကြီး၌ ဝင်ရောက်၍ မှတ်ကျောက်တင်ရာ ပထမကျော်ဘွဲ့ကို ဆွတ်ခူးနိုင်ခဲ့၏။ မိဖုရားခေါင်ကြီးက မောင်ရင့် မိဘသားချင်းများကို နေပြည်တော်ခေါ်ပါ။ ချမ်းချမ်းသာသာ ချီးမြှောက် ထောက်ပံ့ထားပါမည်ဟုလျှောက်၍ အစ်မ ဒေါ်ငွေ၊ ဦးစံလုံး(သား မောင်သာရွှဲ၊ မောင်သာဖဲ၊ သမီး မဇံသီး၊ မလွန်းမယ်)တို့ကို စစ်ကိုင်း ပွဲဆိပ်ရပ်၌ နေရာချထားပေး၏။ ထိုအခါ မယ်တော်ကြီးလည်း ကွယ်လွန်ရှာပြီ။ အေဒီ ၁၈၁၈၊ (သက္ကရာဇ်ကား ၁၁၈၀ ပြည့်နှစ်တည်း။)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၇ )

ပထမကျော် အောင်ပြီး အေဒီ ၁၈၁၉၊ (၁၁၈၁ ခုနှစ်)တွင် ထိုကျောင်း၊ ထိုဆရာ ထိုဒကာတို့၏ တရားပစ္စည်း ချီးမြှောက်ခြင်းကို ခံယူ၍ ရှင်ဉာဏဝံသ ရဟန်းအဖြစ်သို့ ရောက်၏။

(မွှာစရိယ ဦးဌေးလှိုင် ၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ စာ ၁၅၈။)

၁၈၆၂ အေဒီ ၁၈၂၆ ခု (၁၁၈၈ ခုနှစ်)တွင် တောထွက်တော်မူလေ၏။ ပထမဆုံး ခိုဝင်သည့် တောကား စစ်ကိုင်းတောင် အနောက်ဘက်တောင်ခြေရှိ စည်းခုံစေတီတော်ကြီး၏အနီး ဖြစ်၏။ နောက်များမကြာမီ ရတနာထွင့်ခေါင်စေတီတော်ကြီးအနီးသို့ ရွှေ့ပြောင်း၏။ ထိုမှစ၍ ရတနာထွင့်ခေါင် ဘုန်းကြီးလေးဟု ခေါ်ကြ၏။ ဆရာတော်သည် အခြေခံဖြစ်သော ရဟန်းသီလကို မြဲမြံလုံခြုံစွာ ဖြည့်ဆည်း၍ ဓုတင် ၁၃ ပါးကိုလည်း အလျဉ်းသင့်သလိုဆောင်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၈)

ရဟန်းရှစ်ဝါမှစ၍ အနှစ် ၂၀ ကျော် ၃၀ နီးပါး နေရာအတည်တကျမထား။ ရဟန်းတရားနှင့် လျော်ရာဆိတ်ငြိမ်ရာ အရပ်တို့၌သာ ဗဟိုပြု၍ သီတင်းသုံးတော်မူရာ ထိုအချိန်၌ မင်းဝံတောင်ကြီးသည်လည်း ဆင်နေကျားအောင်း ပုပ္ပေါင်းထူထပ်သော တကယ့်တောကြီး မြိုင်လယ်ပင်ဖြစ်သည်။

ထွင့်ခေါင်ဆရာတော်ကား အနှစ် ၂၀ ကျော်လုံးလုံး ဘဝဇာတ်မြှုပ်၍ တရားအားထုတ်ခဲ့၏။ တွေ့သမျှသစ်ပင်သည် ဆရာတော်၏ ကျောင်းများဖြစ်ကြ၏။ ကျေးငှက်များ အိပ်တန်းတက်ချိန်မှစ၍ ညဥ့်ဦးယံ ကမ္မဋ္ဌာန်းအလုပ်ကို စတင်အားထုတ်၏။ ညမှောင်လျှင်ဘုရားဝတ်တက်၏။ မေတ္တာပွား၏။ အမျှဝေ၏။ မအိပ်မနေ နေ့စဉ်ပွားများအားထုတ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၉ )

ထိုအခါ လေနာရောဂါကြီးစွဲကပ်လာ၏။ ထိုကြောင့် ဒကာများ၏ ကောင်းမှုဖြင့် မြင်းမွေးတောရကျောင်းသို့ကြွ၍ဆေးကုခံရ၏။ ထိုတောရသည် ထွင့်ခေါင်တောရနှင့် လေးမိုင်ခန့်ကွာဝေး၏။ ရောဂါသက်သာသည်နှင့် ထိုတောရမှထွက်ခွာခဲ့ပြန်လေသည်။

၁၈၄၆ ထွင့်ခေါင်ဆရာတော်သည် ရဟန်း ၈ ဝါမှ ၂၇ ဝါထိ အေဒီ ၁၈၄၆၊ (သက္ကရာဇ် ၁၂၀၈ မှ ပုဂံမင်းလက်ထက်) နေရာအတည်တကျမရှိဘဲ သီတင်းသုံးတော်မူရာ ၂၇ ဝါ အရတွင် စစ်ကိုင်းတောင်ရိုး ဆင်မချောက်ခေါ် ဆင်မချောင်၌ သီတင်းသုံးသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၃)



စစ်ကိုင်းတွင် ဆင်မချောင်ဟူသော ချောင်တစ်ချောင်ရှိ၏။ ထိုချောင်သည် လျှိုမြောင်ထူထပ် တံတိုင်းခတ်သကဲ့သို့ တောင်ပတ်လည် ဝိုင်းနေသော လျှိုကြီးဖြစ်၏။ ရှေးက မင်းသုံး ဆင်တော်များ လွှတ်ကျောင်းရာဌာနဖြစ်၍ ဆင်မချောင် ခေါ်သည်ဟု သိရပါသည်။

၁၈၅၂ ထွင့်ခေါင်ဆရာတော်သည် ဆင်မချောင်၌ပင် ဆက်လက်သီတင်းသုံးတော်မူခဲ့ရာ ဝါတော် ၃၄ ဝါ သို့ ရောက်ခဲ့၏။ အေဒီ ၁၈၅၂ (၁၂၁၄ ခုနှစ်)တွင် မင်းတုန်းမင်းသည် နောင်တော်ပုဂံမင်းကိုနန်းချ၍ နန်းတက်၏။ ညီတော် ကနောင်မင်းသားသည် အိမ်ရှေ့မင်းဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၆)

မင်းတုန်းမင်းတရားကြီး လက်ထက်တွင် ထွင့်ခေါင်ဆရာတော်သည် မင်းကိုးကွယ်ခံ ဆရာတော်ကြီးဖြစ်လာ၏။

> ထိုအခါ ညီတော် နောင်တော်တို့က ဆင်မချောင်ကို ဓမ္မိကချောင်ဟု ကျောက်စာကမ္ပည်းရေးထိုးကာလှူကြ၏။ နန်းတော်သို့ ပင့်၍ ရာဇဂုရု ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းကြ၏။ ထိုအခါ ဆရာတော်က ငါသေလျှင် တံဆိပ်တုံးကြီးကို ခေါင်းအုံးဘေးချထားမည်ကို ငါရှက်လှသည် ကြည်ညိုလျှင် ငါ့တရားအတိုင်း လိုက်နာကြဟု မိန့်တော်မူကာ စစ်ကိုင်းတောင်သို့ ပြန်ကြွလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၆)

ဤသို့ ထူးလှသော ထွင့်ခေါင်ဆရာတော်ကြီးဖြစ်လေသည်။

၁၈၂၃ ထွင့်ခေါင်ဆရာတော်၏ မူရင်းနာမည်မှာ အသျှင်ဉာဏဝန္တဓဇ အမည်ရှိ မထေရ်မြတ်ဖြစ်သည်။ အသျှင်မထေရ်မြတ်သည် အေဒီ ၁၈၂၃၊ (သက္ကရာဇ် ၁၁၈၅ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၁ ရက်၊ အင်္ဂါနေ့ နံနက် ၁ ချက်တီး ခြောက်မောင်းအခါ နန်းတက်သည့် ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင် ဘကြီးတော် မင်းတရားကြီးနှင့် အဂ္ဂမဟေသီ ဒေဝီမိဖုရားခေါင်ကြီး နန်းမတော်မယ်နု လက်ထက်၌ နန်းမတော်မယ်နု အိမ်နိမ့်စံဘဝမှစ၍ ပစ္စည်းလေးပါး၊ ဒါယိကာမ ပစ္စယာနုဂ္ဂဟအဖြစ် ခံယူကာ ရဟန်းအမအဖြစ်ဖြင့် ကိုးကွယ်တော်မူခဲ့သော အင်းဝမြို့ မန်ကျည်းတောဆရာတော်ကြီး၏ သိဒ္ဓိဝိစာရိက တပည့်ဖြစ်တော်မူသည်။

၁၈၂၇ ထိုအချိန်တွင် အသျှင်ဉာဏဝန္တဓဇသည် အမျိုးမျိုးသော ဝဋ်ဆင်းရဲ ဒုက္ခဘေးဆိုးတို့တွင် တွေးတောစိမ့်ကြောက်၍ သံဝေဂဉာဏ်တော် ပေါ်ပေါက်တော်မူသဖြင့် ရဟန်းသိက္ခာတော် ၉ ဝါအရ အေဒီ ၁၈၂၇၊ (သက္ကရာဇ် ၁၁၈၉ ခုနှစ်)တွင် ရတနာပူရ အင်းဝမြို့ မင်းနေပြည်တော်မှ ဖယ်ခွာလာခဲ့ပြီး၊ စစ်ကိုင်းမြို့ မြောက်တောရကျောင်း စည်းခုံစေတီတော် အနီးတောကြီးထဲ၌ သမထဝိပဿနာ ကမ္မဋ္ဌာန်း တရားများကို စီးဖြန်းပွားများလျက် နေတော်မူသည်။

စည်းခုံစေတီတော်အနီးသည် မြေပြန့်၍ တောခေါင်ပြီး လူသူမရှိ တိတ်ဆိတ်သော်လည်း ထိုနေရာတွင် တစ်ဝါမျှနေထိုင်ပြီး စေတီတော်အရှေ့ဘက် မင်းဝံတောင်ထိပ်၌ မိဖုရားစိုးမင်းတည်ထား ကိုးကွယ်တော်မူသော ရတနာထွင့်ခေါင်စေတီတော် မြောက်ဘက်နေရာသို့ ပြောင်းရွှေ့ သီတင်းသုံးနေတော်မူခဲ့သည်။



## ထွင့်ခေါင်ဆရာတော်ဟု ခေါ်ကြခြင်း

ထိုသို့ နေထိုင်စဉ်မှ စ၍ မူလရဟန်းဘွဲ့တော် နာမည်ရင်း အသျှင်ဉာဏဝဏ္ဏဓဇ နာမည်ကို ခေါ်ဝေါ်ခြင်းမပြုကြတော့ဘဲ ထွင့်ခေါင်ဆရာတော်လေးဟု အနီးဝန်းကျင်ရှိ ရဟန်းသံဃာဆရာတော်များကခေါ်ကြသည်။ ရတနာထွင့်ခေါင် ဘုန်းကြီးလေးဟုလည်း ခေါ်တွင်စပြုကြ၏။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ စာ - ၁၅၈)

ဆရာတော်သည် ထွင့်ခေါင်စေတီတော်အနီး၌ (၅)ဝါ သီတင်းသုံးတော်မူပြီးနောက် စေတီတော်၏ မြောက်ဘက်၊ မြင်းမွေးတောရ၊ လက်လှုပ်တောရ၊ ပေါက်တောကန်တောရ၊ ပဲကတိုးတောရ၊ ကောင်းမှုတော်တောရ၊ စာရေးတောရ၊ ကျောက်ပန်းတောရ၊ ရွှေမြင်တင်တောရ၊ အုန်းသဇင်တောရ စသည့် တောရကျောင်းများသို့ အဆင့်ဆင့်ပြောင်းရွှေ့သီတင်းသုံးနေထိုင်တော်မူခဲ့သည်။

၁၈၅၂ ထို့နောက် အမရပူရ ဒုတိယမြို့တည်နန်းတည်သော သာယာဝတီမင်း လက်ထက် အေဒီ ၁၈၅၂ ၊ (သက္ကရာဇ် ၁၂၁၄ ခုနှစ်)တွင် မင်းဝံတောင်တန်း မြောက်ဘက်အဆုံး ဓမ္မိကချောင် အမည်ရှိ တောကြီး၏တောင်ကြား ဆင်မတောင် ချောက်ကြားနေရာသို့ နောက်ထပ် ပြောင်းရွှေ့ပြီး နေထိုင်တော်မူသည်။

## ပုဂံမင်းလက်ထက်

အမရပူရမြို့ ပုဂံမင်းလက်ထက် ရောက်သည့်အခါ ညီတော် သာယာဝတီမင်းနှင့် မိဖုရား သီရိသုစန္ဒာမလ္လာ တောင်ဆောင်တော် ကျောက်မော်မြို့စားတို့က ဆရာတော်ကို ကိုးကွယ်တော်မူကြသည်။

## မင်းတုန်းမြို့စား မင်းတုန်းမင်းသားနှင့် ကနောင်မင်းသား

၁၈၅၉ အေဒီ ၁၈၅၉ ၊ (သက္ကရာဇ် ၁၂၂၁ ခုနှစ်) မန္တလေးမြို့တည်နန်းတည် မင်းတုန်းမင်းတရားကြီးသည် မင်းမဖြစ်မီ မင်းတုန်းမင်းမြို့စား မင်းသားဘဝတွင် ညီတော် ကနောင်မင်းသားနှင့်အတူ ထွင့်ခေါင်ဆရာတော်၏ ဂုဏ်သတင်းကို ကြားသိ၍ ဆရာတော်၏ ခြေတော်ရင်း၌ ဝပ်တွားဆည်းကပ် ကိုးကွယ်ကြခဲ့သည်။

ထို့နောက် မင်းတုန်းမင်းကြီးအဖြစ် ရောက်ရှိသည့်အခါတွင် မင်းကြီးသည် မန္တလေးနေပြည်တော်မှ ဧရာဝတီမြစ်အနောက်ဘက်ကမ်း ဆင်မတောင်ချောင်တွင် သီတင်းသုံးနေထိုင်သော ထွင့်ခေါင်ဆရာတော်ကို ထိုချောင်မှ တစ်လတစ်ကြိမ် မန္တလေးမြို့ ရွှေနန်းတော်သို့ ပင့်ဖိတ်၍ ဆရာတော်ကြီး၏ ဆုံးမဩဝါဒကိုနာခံသည်။

## အကျဉ်းသားများ လွတ်ငြိမ်းချမ်းသာခွင့်

ထိုစဉ် ဆရာတော်ကြီးနေထိုင်ရာ ဆင်မတောင်ချောင်ကိုလည်း ဓမ္မိကချောင်ဟူ၍ ကမ္ပည်းတပ်တော်မူသည်။ ထိုအချိန်ကာလ၌ ဘုရင်၏ မင်းပြစ်မင်းဒဏ်သင့်သော သူများသည် ထွင့်ခေါင်ဆရာတော်၏ ဓမ္မိကချောင်သို့ရောက်လျှင် မင်းတုန်းမင်းကြီး ကိုယ်တိုင်သော်မှ ဖမ်းဆီးခြင်းမပြုဘဲ ကင်းလွတ်ခွင့်ပေးရသည်။



မင်းပြစ်မင်းဒဏ်သင့်၍ အကျဉ်းချထားခြင်းခံနေရသူများကိုလည်း အခါ အခွင့်သင့်လျှင် ထိုအကျဉ်းသားအချို့ကို အလှူခံလျှင်လည်း ဆရာတော်၏အမိန့်အရ အကျဉ်းမှလွှတ်ပေးခဲ့ရသည်။

## ဓမ္မိက ထွင့်ခေါင်ချောင်တွင် ခန္ဓာဝန်ချတော်မူခြင်း

၁၈၈၀ ရှေးအခါက ဓမ္မိကချောင်ကို ယခုချောင်အဝင်မုခ်တွင် ဓမ္မိကချောင်ထွင့်ခေါင်ဟူ၍ ရေးသားထားသည်။ ထွင့်ခေါင်ဆရာတော်ကြီးသည် ၁၈၈၀ ခု၊ ဖွန်လ ၇ ရက်၊ တနင်္လာနေ့ (သက္ကရာဇ် ၁၂၄၂ ခုနှစ်၊ ပထမ ဝါဆိုလဆန်း ၁ ရက်နေ့)နံနက် မြန်မာနာရီ ၁ ချက်တီးအချိန် သက်တော် ၈၁ သိက္ခာ ၆၁ ဝါ အရ ဓမ္မိကချောင်ရှိ ဂျာမနီဆရာဝန်ကြီးမာဘိ၏ကျောင်း၌ပင် စုတိကမ္မဇရုပ်ချုပ်ငြိမ်းတော်မူ၏။

(ကျွမ်းကိုး မောင်မောင်တင် မဟာဝိဇ္ဇာ၊ ဓမ္မိကချောင်၊ ထွင့်ခေါင် ဓမ္မိကာရာမသို့ ၊ မြတ်ဆုမွန်၊ စာ ၄၂-၄၆၊ )

ယခုထက်တိုင်ပင်လျှင် ကနောင်မင်းသားကြီး ကျောင်းနေရာဟောင်းကိုလည်း တွေ့နိုင်ပါသေးသည်။ ထွင့်ခေါင်တောရသို့သွားသော လမ်းတစ်လျှောက်တွင် မန်ကျည်းပင်များ ဖုံးအုပ်လျက်ရှိကြောင်းတွေ့ရှိရပါသည်။ ထိုမန်ကျည်းပင်များမှာ ကနောင်မင်းသားကြီး က ဖျော်ရည်ရရန်အတွက် စိုက်ထားခဲ့ကြောင်းသိရှိရပါသည်။ ထိုနေရာတွင် ကနောင် မင်းသားကြီး၏ ကုသိုလ်စကြိန်ကျောင်းကို တွေ့ရပါသည်။

(ကျွမ်းကိုး မောင်မောင်တင် မဟာဝိဇ္ဇာ၊ ဓမ္မိကချောင်၊ ထွင့်ခေါင် ဓမ္မိကာရာမသို့ ၊ မြတ်ဆုမွန်၊ စာ ၄၅)

ဤတွင် ထူးခြားသော အချက်တစ်ခုမှာ ထွင့်ခေါင်ဆရာတော်ဘုရားကြီး ခန္ဓာဝန် ချတော်မူသောအခါ ဆရာတော် သီတင်းသုံးတော်မူခဲ့သော ကျောင်းသည်လည်း တစ်ချိန်တည်းမှာပင် အဂ္ဂိမီးလောင်ကျွမ်းပြီးဖြစ်ကြောင်း တွေ့ရှိရသည်ဟူသော အချက်ဖြစ်ပါသည်။

(ကျွမ်းကိုး မောင်မောင်တင် မဟာဝိဇ္ဇာ၊ ဓမ္မိကချောင်၊ ထွင့်ခေါင် ဓမ္မိကာရာမသို့ ၊ မြတ်ဆုမွန်၊ စာ ၄၅ )

၁၉၆၈ ပထမ ထွင့်ခေါင်ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချတော်မူပြီးနောက် ယခုအခါ ဓမ္မိကာရာမချောင်၌ ကျောင်းထိုင်သော ဆရာတော် ဦးခန္တီစာရ (ဝါတော် - ၄၀ ၊ သက်တော် ၆၀ ) ကို ပဥ္စမမြောက် ဆရာတော်ဟုခေါ်သည်။ စတုတ္ထဆရာတော် ဦးသုဝဏ္ဏသည် အေဒီ ၁၉၆၈ (၁၃၃၀ ပြည့်)၌ ပျံလွန်တော်မူသည်။

၁၉၃၇ တတိယဆရာတော်သည်ကား ပထမထွင့်ခေါင် ဆရာတော်၏ မြေးဖြစ်၏။ အေဒီ ၁၉၃၇ ခု (၁၂၉၉ ခု)၌ ကျောက်ကာရွာတွင် လည်ချောင်း၌ အနာပေါက် ရောဂါဖြင့် ပျံလွန်ကြောင်းမှတ်ရသည်။

၁၉၈၅ ၁၉၈၅ ခုနှစ်က ဦးခန္တီစာရနှင့်အတူ ရဟန်းတော်တစ်ပါး၊ သာမဏေနှစ်ပါး၊ ကျောင်းသားငယ်နှစ်ယောက်ရှိသည်ဟု သိရပါသည်။

နောင်သောအခါ ဦးခန္တီစာရသည် ဓေတစာ ဆက်လက် ကျင့်သုံး ကမ္မဋ္ဌာန်း ဝိပဿနာ ပွားများလျက်ရှိကြောင်း၊ တစ်နေ့လျှင် တစ်ကြိမ်သာ



တောင်အောက်သို့ဆင်း၍ ဘုဉ်းပေးကြောင်း၊ မွန်းတည့်သောအခါ တောင်ပေါ်သို့ ပြန်တက်ပြီး ဆက်လက်အားထုတ်လျက်ရှိကြောင်း သိရပါသည်။

(ကျမ်းကိုး မောင်မောင်တင် မဟာဝိဇ္ဇာ၊ ဓမ္မိကချောင်၊ ထွင့်ခေါင် ဓမ္မိကာရာမသို့ ၊ မြတ်ဆုမွန်၊ စာ ၄၆)

ယခုထက်တိုင်အောင် မင်းတုန်းမင်းနှင့် မိဖုရားများ လှူဒါန်းထားသော ကုသိုလ်တော် အုတ်ပြာသဒ်၊ သိမ်ကျောင်းများ၊ ပျက်စီးနေသည်ကို လေ့လာကြ ရသည်။ ဝိဇယဘူမိသိမ်၊ ရန်အောင်မြင်ဘုရား၊ မယ်နတ်ပေးဘုရား၊ ပါဒစေတီ (အထက်နှင့် အောက်) အိမ်ရှေ့ကနောင်မင်းသား စကြံ၊ မိန်းမစိုးစကြံ ကျောင်းနေရာ၊ မိဖုရားမယ်သဲ၏ ပိတ်ကျောင်း၊ ဆင်ဖြူမရှင်၏ မှန်ကျောင်းနေရာများကိုသာ တွေ့ရတော့သည်။

(ကျမ်းကိုး။ (၁) ဆရာတော် ဦးကျော်ထင် သာသနာတော်၌ ထင်ရှားသော ဆရာတော်ကြီး ၁၉ ပါး၊ စပယ်ဦး စာပေ၊ ပထမအကြိမ်၊ ၂၀၀၄ ခု၊ အောက်တိုဘာလ၊ စာ ၉၈-၁၀၁၊) (ကျမ်းကိုး။ (၂) မောင်မောင်တင် မဟာဝိဇ္ဇာ၊ ဓမ္မိကချောင် ထွင့်ခေါင် ဓမ္မိကာရာမသို့၊ မြတ်ဆုမွန်၊ စာ ၄၂-၄၆၊ ) (ကျမ်းကိုး။ (၃) ဓမ္မာစရိယ ဦးဒွေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ ၁၉၉၃ခု၊ နဝမအကြိမ်၊ ဗုဒ္ဓအသံ စာပေ၊ ကျမ်းကိုး ၄။ စစ်ကိုင်းသာသနာဝင်၊ စာ ၁၂၇-၁၂၈)

အုဂ်ဗိုရ်ဆရာတော်ဘုရားကြီး

# အရှင် ဥက္ကံသမာလာ ထေရ်မြတ်ကြီး

အေဒီ ၁၈၁၇ – ၁၉၀၆ (၁၁၇၉ – ၁၂၆၇)





၁၉၈၇ ခုနှစ် ဇူလိုင်လ ၁၇ ရက်ထုတ် ဓမ္မကြေးမုံ အတွဲ ၁၊ အမှတ် ၂၊ စာမျက်နှာ ၂- ၃-၄ တို့တွင် ထူးခြားလှသော အုဂ်ဖိုရ်ဆရာတော်ဟူ၍ ကျွန်ုပ် ရေးသားခဲ့ဖူးပါသည်။ နှစ်ပေါင်း ၃၀ ကျော်က စာဖြစ်ပါသည်။ ထိုစာကို ယခု ပြန်ဖတ်သောအခါ ကောင်းလှသည်ဟု မဆိုနိုင်သော်လည်း ငါသည် ငယ်ငယ်ကတည်းက ဆရာတော်ကြီးများကို ကြည်ညို၍ စာဖြင့် ပူဇော်ခဲ့ဖူးပါကလားဟု ဝမ်းသာမိပါသည်။ ထိုစာကို ရေးစဉ်က အကိုးအကားများမှာ (၁။) ဦးတင်ရွှေ အငြိမ်းစား စာပြုအယ်ဒီတာ၊ သာသနာရေး ဦးစီးဌာန၊ သာသနာပြု အုဂ်ဖိုရ် ဆရာတော်ကြီး၏ သာသနာသန့်ရှင်းတည်တံ့ရေး ပထမအကြိမ်၊ ၁၉၈၂၊ (၂။) သီရိသောဘနထေရ်၊ ဟင်္သာတမြို့ သပြေပင်ကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ မဟာဒွါရနိကာယ ဒုယတိယ မဟာနာယက၊ မဟာဒွါရနိကာယ သာသနာဝံသ ဒီပနီကျမ်း။ (၃။) အင်္ဂပူ မဟာထေရုပ္ပတ္တိ သုဓမ္မဝတီ။ ဟူ၍ တွေ့ရှိရပါသည်။ ယခုအခါ ထိုစာအုပ်များကို အတော်ကြိုးစား၍ ပြန်လည်ရှာဖွေရပြန်သည်။

တစ်ဖန် သာသနာရေးဦးစီးဌာန၊ အငြိမ်းစား စာပြုအယ်ဒီတာ ဦးတင်ရွှေရေးသားအပ်သော သာသနာပြုအုဂ်ဖိုရ်ဆရာတော်ကြီး၏ သာသနာ သန့်ရှင်းတည်တံ့ရေး၊ ၁၉၈၂ ဧပြီလ ပထမ အကြိမ်ကို ဖတ်ရှုရသောအခါ ပို၍ပို၍ အံ့သြကြည်ညိုလာမိပါသည်။

အောက်ပါအကြောင်းအရာမှာ ၁၉၈၇ ခုနှစ်က ဤစာပြုသူ ရေးသားခဲ့သော စာမူဖြစ်ပါသည်။ ဓမ္မကြေးမုံစာစောင် အတွဲ ၁၊ အမှတ် ၂၊ စာမျက်နှာ ၂-၄ တို့တွင် ပါဝင်ခဲ့ပါသည်။ လွန်ခဲ့သော နှစ် ၂၀ ကျော်ကတည်းက ရဟန္တာနှင့် ရဟန်းထူးများ မဟာထေရုပ္ပတ္တိများကို စိတ်ဝင်စားခဲ့သည်ဟု မိမိကိုယ်မိမိ ဆန်းစစ်ခြင်းဖြစ်ပါသည်။

အဆိုပါ ငယ်လက်ရာများတွင် ဆရာတော်ကြီး၏ သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ် အံ့ဖွယ်ရာများကို များစွာမဖော်ပြနိုင်သော်လည်း ပါသင့်သလောက်ပါကြောင်း တွေ့ရှိရပါသည်။ ၁၉၇၈ ခု လက်ရာဖြစ်ပါသည်။ ၎င်းနောက် ထိုအကြောင်းကို ကမ္ဘာ့ရှင်ဘုရင် စာအုပ်ထဲတွင် တစ်ဖန်ဖော်ပြခဲ့ပါသည်။

(ကျမ်းကိုး၊ မောင်ပန်းမွှေး ကမ္ဘာ့ရှင်ဘုရင်၊ ၂၀၀၃ ခု၊ ဒီဇင်ဘာလ၊ အဲဗားဂရင်း ပုံနှိပ်တိုက်၊ စာ ၇ - ၁၅ ကိုလည်း ကြည့်ပါ။)

ထို့ကြောင့် ဆက်လက် လေ့လာပြီးနောက် နောင်လာနောင်သားများအတွက် အုဂ်ဖိုရ်ဆရာတော်ကြီး၏ ကြည်ညိုဖွယ်ရာများကို ပြန်လည်ဖော်ပြပါမည်။

အုဂ်ဖိုရ်ဆရာတော်ဘုရားကြီးအကြောင်းနှင့်စပ်လျဉ်း၍ အံ့ဖွယ်သစ္စာကို ဤသို့ဖတ်ရှုခဲ့ရပါသည်။

"သဒ္ဓါတရားဖြင့် မကျိုးမပေါက်ရအောင် စောင့်ထိန်းလျက် မြတ်စွာဘုရား သာသနာတော်ကို ထမ်းဆောင်ခဲ့ပါသည်။ ဤကုသိုလ်အဖို့ဘာဂကို တောစောင့်နတ်၊ တောင်စောင့်နတ်၊ သာသနာစောင့်နတ်စသော နတ်ကောင်းနတ်မြတ် အပေါင်းတို့အား အမျှပေးဝေပါသည်။ အမျှယူကြပါရန်- ငါသည် ယခု ရေချိုးလိုသည်၊ ဤမဇင်းချောင်းမှာလည်း ရေအလွန်တိမ်သည်၊ အသင်နတ်တို့သည် ဤချောင်းရေကို ဆည်တားအောင့်အည်း၍ ထားပေးကြပါမူကား ကောင်းလေစွ"ဟု ပြောကြားနေသည်ကို ကြားရလေသည်။



ဆရာတော်ဘုရားကြီးသည် ရေသုံးသပ်တော်မူခြင်းကိစ္စကို အောက်ပါအတိုင်း အံ့ဩကြည်ညို ရပါသည်။

ထို့နောက် ဆရာတော်ကြီးသည် သစ်ပင်အောက်မှ လှည့်ထွက်တော်မူလျှင် ကပ္ပိယကို တွေ့၍ ရေသနုပ်ယူလာပြီလားဟုမေးရာ ကပ္ပိယကလည်း ရေသနုပ်ကိုဆက်ကပ်လေသည်။ ဆရာတော်ကြီးသည် ရေသနုပ်ကိုလဲတော်မူရင်း၊ ရေကိုဆင်း၍ စမ်းလိုက်စမ်းဟု ကပ္ပိယကိုမိန့်တော်မူသဖြင့် ရေကိုဆင်း၍ စမ်းသောအခါ ရင်ခေါင်း ရင်စို့ခန့်နက် ကြောင်းသိရ၍ ဆရာတော်ကြီးအား ပြန်၍လျှောက်ထားလျှင် ဆရာတော်ကြီးသည် **အနည်းငယ်ပြုံး၍ ချောင်းတွင်းဆင်းပြီး ရေချိုးတော်မူလေသည်။ ရေချိုးပြီး၍ ကုန်းပေါ်သို့တက်လာပြီးနောက် ခဏကြာသောအခါ ရေသည် မူလအတိုင်းပင် ပြန်၍တိမ်သွားလေသည်။**

(ကျမ်းကိုး၊ ယင်း စာ၊ ၂၃၇)

၎င်းအကြောင်းခြင်းရာကို ဆရာညိုသည် ဒိဋ္ဌမျက်မြင်တွေ့မြင်ရသည့်အတိုင်း တစ်ဆင့် ပြောကြားသဖြင့် တပည့်များသိကြရလေသည်။

ဆရာတော်ကြီးသည် ဝိနည်းသိက္ခာအကျင့်နှင့်တကွ ကျမ်းဂန်လာ ဒေသနာအရပ်ရပ်ကို တိတိကျကျ ကိုယ်တိုင်လည်း ကျင့်သုံးတော်မူသည်။ ဟောပြောရာ၌လည်း အရှိကိုအရှိအတိုင်းပင် တိတိကျကျ ဟောပြောတော်မူသည်။ ဘုရားမျက်နှာမှတစ်ပါး မည်သည့်မျက်နှာကိုမျှ မကြည့်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းစာ၊ ၂၃၈)

တစ်ရံရောအခါ အုဂ်ဖိုရ်ဆရာတော်ကြီးသည် အုတ်ဖိုမြို့ ကန်ကုန်းကျောင်းတိုက် ဦးဘိုးအို ဆောက်လုပ် လှူဒါန်းသောကျောင်း၌ သီတင်းသုံးတော်မူနေစဉ် တစ်နေ့သော ညသန်းခေါင်အချိန်ခန့်တွင် ဆရာတော်ကြီး သီတင်းသုံးတော်မူရာ ဦးဘိုးအို ကျောင်းခေါင်မိုးတည့်တည့်မှ မီးမောင်းထိုးသကဲ့သို့ အဖြူရောင်ခြည်တန်းကြီးလင်းပြီး ကောင်းကင်သို့ဖြာထွက်နေသည်ကို ကျောက်တိုင်နှင့်မနီးမဝေး ဗိုလ်ကုန်းတန်းရပ်၊ ရေကျော်ရပ်မှ မအိပ်ကြသေးသော အချို့သူတို့ မြင်တွေ့ကြရာ ကျောင်းမီးလောင် နေသည် အထင်ဖြင့် ဆူညံစုဝေး လာရောက်ကြရာ မီးလောင်ခြင်းမဟုတ်ဘဲ လင်းနေသော အဖြူ ရောင်ခြည်တန်းကြီး ကျောင်းခေါင်မိုးပေါ်မှ ကောင်းကင်သို့ ဖြာထွက်နေသည်ကို တွေ့ကြရလေသည်။

ဆရာတော်ကြီးသည် ဆူညံနေသော လူသံများကို ကြားရသဖြင့် "ဒါယကာ တွေ ဘာကိစ္စအတွက် အချိန်မတော် ကျောင်းသို့လာရောက်ကြသနည်း" ဟု တပည့် ရဟန်းများ မေးမြန်းရာ တပည့်များကလည်း "မသိပါဘုရား" ဟု လျှောက်ထားကြလျှင် "ဒါယကာတွေကို ခေါ်လိုက်စမ်း"ဟု မိန့်တော်မူသဖြင့် ကျောင်းမှထွက်၍ ခေါ်ကြလေသည်။

ဒါယကာများ ရောက်လာကြသောအခါ "ဘာဖြစ်ကြတာလဲ၊ ဘာကိစ္စ လာကြသလဲ" ဟု မေးတော်မူလေသည်။ ဒါယကာတို့က "မှန်လှပါ ဆရာတော်ဘုရား၏ ကျောင်းခေါင်ပေါ်တည့်တည့်မှ အဖြူအလင်းရောင်ခြည် ကောင်းကင်သို့ ဖြာထွက်ပြီး လင်းနေသည်ကို တပည့်တော်တို့ မြင်တွေ့ကြရာ မီးလောင်နေသည်ထင်၍ လာရောက် ကြကြောင်း" အံ့ဩစွာ လျှောက်ထားကြလေသည်။



ဤတွင် ဆရာတော်ကြီးက "အင်း-ဒီလိုဆို ဒါယကာတို့သည် ဤအကြောင်းကို ယခုမှ စပြီး အရပ်ထဲမှာ မည်သူကိုမှမပြောကြနဲ့၊ အုတ်အုတ်ကျက်ကျက်ဖြစ်မည်"ဟု ဒါယကာများကို ပိတ်ပင်တော်မူလေသည်။ ဒါယကာများလည်း "မှန်လှပါဘုရား"ဟု ဝန်ခံကြလေသည်။ ဆရာတော်ကြီးကလည်း "အေး-မင်းတို့ ပဋိညာဉ်အတိုင်း နောက်ထပ် ဒီသတင်းကို မကြားရစေနှင့်"ဟု မိန့်တော်မူလိုက်လေသည်။

(ကျမ်းကိုး၊ ယင်းစာ၊ ၂၃၉၊ ၂၄၀)

တစ်ရံရောအခါက ဆရာတော်ကြီးသည် ခနဲဖြူသို့ကြွတော်မူသည်။ ကိစ္စမှာ ခနဲဖြူက ရွှေဂူဆရာတော်၏ ဈာပနကိစ္စဖြစ်သည်။ ရွှေဂူဆရာတော်သည် အုဂ်ဖိုရ်ဆရာတော်၏ ငယ်ဆရာဖြစ်လေသည်။ ဈာပနကိစ္စပြီး၍ သာရဝေါသို့ လှေဖြင့်ပြန်ကြွ၏။

ဆကာကြီး အမည် ရှိသောရွာသို့ ရောက်သောအခါ ဆရာတော်သည် ကုန်းပေါ်သို့ ကမ်းနားစပ်မှ လျှောက်၍ ကြွတော်မူသည်။ ထိုအခါ ဆရာတော်နှင့် အတူ ဒါယကာ (၆)ဦးပါရှိလေသည်။

"မင်းတို့လှေကို ဒီအတိုင်း လှော်၍လာကြ" ဟု ဆရာတော်က အမိန့်ရှိသဖြင့် လှေသည် လှော်၍ လိုက်လာ ရလေသည်။ ဆရာတော်က ရှေ့မှကြွ၏။ ဒါယကာတို့က နောက်မှလိုက်၏။

ဒါယကာတို့မှာ စကားတပြောပြောဖြင့် လိုက်လာကြရာ ဆရာတော်ကြီးက ရှေ့သို့တစ်ခေါ် လောက်ကျော်သွားလေသည်။ ထိုနေရာသည် ဆကာကြီးနှင့် အဖျောက်မြို့အကြားရှိ နေရာဖြစ်လေသည်။

ထိုအချိန်တွင် ဧရာဝတီမြစ်ထဲမှ မိကျောင်းတစ်ကောင်သည် ကုန်းပေါ်သို့ ရုတ်တရက် တက်လာပြီး ရှေ့မှဆီးတားလျက် ရပ်နေလေသည်။ ထိုအကြောင်းကို ဆရာဦးတင်ရွှေသည် အောက်ပါအတိုင်း ရေးထားပါသည်။

> "ထိုအချိန်တွင် ဧရာဝတီမြစ်ထဲမှ မိကျောင်းကြီးတစ်ကောင်သည် ရုတ်တရက် ကုန်းပေါ်တက်လာပြီး ကမ်းစပ်မှ ကြွသွားနေသော ဆရာတော်ကြီး၏ ရှေ့တည့်တည့် နှစ်တောင်ခန့်လောက်အရပ်၌ ဆီးတားလျက် ရပ်နေလေသည်။ ထိုအခါ ဆရာတော်ကြီးသည် တုန်လှုပ်ချောက်ချားခြင်းမရှိ ပကတိတည်ငြိမ်စွာပင် ရပ်တန့်တော်မူပြီး မိကျောင်းကြီးအား တစ်စုံတရာ ရွတ်ဖတ်ပြောဟော နေတော်မူလေသည်။
>
> ထိုနောက်မှ ဒါယကာ ခြောက်ဦးတို့သည်လည်း ဆရာတော်ကြီး ငြိမ်သက်ရပ်တန့်နေသည်ကို လှမ်း၍မြင်ကြသဖြင့် ဘာ့ကြောင့်ပါလိမ့်ဟုဆိုပြီး ဆရာတော်ကြီးထံ အမြန်လာကြလေသည်။ အနီးသို့ရောက်သောအခါ ဆရာတော်ကြီး ရှေ့၌တားဆီး ရပ်တည်နေသော မိကျောင်းကြီးအား ဆရာတော်ကြီးက ရွတ်ဖတ်ပြောဆိုနေသည်ကို စကားလုံး မကွဲပြားဘဲ ကြားနေကြရလေသည်။ ထို့နောက် ဆရာတော်ကြီး၏ "အမျှ . . . အမျှ . . . အမျှ"ဟု အမျှပေးဝေသံကို ကြားရပြီး မိကျောင်းကြီးလည်း နောက်ဆုတ်လျှော၍ ရေထဲသို့ ပြန်ဆင်းသွားသည်ကို မြင်ကြလေသည်။
>
> ထို့နောက် ဆရာတော်ကြီးသည် ဒါယကာများဘက်သို့လှည့်၍ "ကဲ . . ဒါယကာတို့ ထိုင်ကြဦး" ဟုဆိုသဖြင့် ဒါယကာများလည်း ထိုင်၍ရှိခိုးနေကြလေသည်။
>
> "ဒါယကာတို့ ငါ့အား ဝန်ခံကတိတစ်ခု ပေးကြရမည်"ဟု မိန့်တော်မူလေလျှင် "မှန်ပါဆရာတော်ဘုရား အမိန့်အတိုင်း ဝန်ခံကတိပြုပါမည်"ဟု လျှောက်ထားကြလေသည်။ ဆရာတော်ကြီးက "ကဲ . . . ယခု ဒါယကာ တို့မြင်တွေ့ရသော အကြောင်းခြင်းရာကို အခြားမည်သူကိုမှမပြောကြရ၊ မပြောပါ" ဟု ဝန်ခံကတိပြုကြရမည်ဟု မိန့်တော်မူလေသည်။



ယင်းသို့ ဝန်ခံကတိ ပြုကြသော်လည်း မိမိတို့ နေရပ်ဌာနသို့ ပြန်ရောက်ကြသောအခါ အချို့ဒါယကာတို့က စကားစပ်ကြပြီး တွေ့မြင်ခဲ့ရပုံအကြောင်းကို ပြောကြလေသည်။ ဒါယကာ ဦးဆင်ဆိုသူကား မိမိ၏သမက် ဇလွန်မြို့မှ အမိန့်တော်ရ ဦးပုအား စကားစပ်ပြီးအကြောင်းစုံကို ပြောပြလေသည်။ ဦးပုမှတစ်ဆင့် ဤအကြောင်းအရာကို မဟာထေရုပ္ပတ္တိ၌ ရေးသားထည့်သွင်းနိုင်သည်အထိ အဆင့်ဆင့် သိမှတ်ရလေတော့သည်။

> ဆရာတော်ကြီး သက်တော်ထင်ရှား ရှိစဉ်အခါက အောက်ပြည်အောက်ရွာ အမြို့မြို့ အနယ်နယ်၌ ကိုယ်တော်တိုင် သမုတ်တော်မူခဲ့သော သိမ်တို့မှာ (၆၈)လုံးရှိသည်ဟု သိရပါသည်။ ရေးသားပြုစုတော်မူခဲ့သော ကျမ်းတို့မှာ မေတ္တာစာရတု အပါအဝင် စာအုပ်စာတမ်း (၁၁၀)ကျော် ရှိခဲ့သည်ဟု သိရှိရပါသည်။
>
> (မောင်ပန်းမွှေး၊ အချစ်ဂျာနယ် အတွဲ (၄)၊ အမှတ် (၁၁)၊ ၁၃-၆-၂၀၀၅)

အုဂ်ဖိုရ်ဆရာတော်နှင့် စပ်လျဉ်း၍ ကံကောင်းသော အချက်တစ်ချက်မှာ ဆရာတော်ကြီး၏ တပည့်အရင်းကိုယ်တိုင် အတွင်းကျကျ ရေးသားပြုစုအပ်သော စာအုပ်တစ်အုပ် လက်ဝယ်ရှိခြင်းပင် ဖြစ်ပါသည်။

ဆရာတော်ကြီး၏ တပည့်ရင်းမှာ ဟင်္သာတမြို့ သပြေပင်ကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ မဟာဒွါရနိကာယ ဒုတိယ မဟာနာယက သိရီသောဘန ထေရ်အရှင်ပင် ဖြစ်ပါသည်။ ထိုအရှင်ပင် စီမံရေးသားအပ်သော မဟာဒွါရနိကာယ သာသနဝံသဒီပနီကျမ်း ဟူ၍ ရှိရာ ထိုကျမ်းကြီးကို လယ်တီမဏ္ဍိုင်ပုံနှိပ်တိုက်က ၁၃၃၆ ခု၊ သီတင်းကျွတ်လတွင် ပုံနှိပ်ထုတ်ဝေခဲ့လေသည်။ ထိုဒီပနီ ကျမ်းတွင် အုဂ်ဖိုရ်ဆရာတော်ကြီးနှင့် စပ်လျဉ်း၍ မှတ်သားမိသမျှကို အသေအချာ ရေးသားထားသည်ကို ဖတ်ရှုရသဖြင့် ကျွန်ုပ်တို့ ကံကောင်းလှပေသည်။ ထိုစာမူကို ကိုးကား၍ ကြည်ညိုနိုင်ရန် ကောက်နုတ်တင်ပြပါမည်။ အောက်တွင် ဖတ်ရှုပါ။

ကျေးဇူးရှင်ဆရာတော်ဘုရားကြီးကား သမာဓိကြီးမြတ်ခိုင်ခံ့ ကြံ့ကြံ့မယိမ်း မတိမ်းမဖည် တည်ကြည်တော်မူလှပေသည်။

> အခါတစ်ပါး ကုလားထိုင်ပေါ်မှာ သီတင်းသုံးနေတော်မူရာ အထက်၌ရှိသော ဆွဲယပ်ကို သာမဏေ ရှင်ကောလိတက ညှင်းညှင်းသာသာ ဆွဲငင်နေစဉ် ယပ်ကြိုးအစုံပြတ်၍ ဆရာတော်ဘုရားကြီးရှေ့နား၌ လွတ်ရုံမျှသာ ပြင်းစွာသော အသံဖြင့် ယပ်ကျလေသည်။ ယပ်ကြိုးများမှာ ဆရာတော်ဘုရားကြီး၏ ရှေ့နောက်ဝဲယာပတ်လည်၌ပင် ကျလေသည်။
>
> ဆရာတော်ဘုရားကြီးကား မတုန်မလှုပ်၊ မည်သို့မျှလည်း မိန့်တော်မမူချေ။ သာမဏေ ရှင်ကောလိတလည်း မည်သို့မျှ မပြုဝံ့၊ ကြောက်ရွံ့ထိတ်လန့်စွာ အပြေးအလွှားသွား၍ ဆရာတော် ဦးဝေသဏ္ဍကို လျှောက်ထားရသည်၊ ဆရာတော် ဦးဝေသဏ္ဍလည်း အလျင်အမြန်လာ၍ ဖယ်ရှား သိမ်းဆည်းတော်မူသည်။
>
> ထိုအခါကျမှ 'ဘာဖြစ်တာလဲ' ဟုမေးတော်မူသည်။ ယပ်ကြိုးပြတ်ကျပါသည် ဘုရား'ဟု လျှောက်ထားလျှင် 'ကြာမြင့်လှပြီပဲကွယ်' 'ဆွေးမြေ့ပြတ်သတ်မှာပေါ့' ဟု မိန့်တော်မူသည်၊ အခြားစကားမိန့်ကြားတော်မမူချေ။

ဤသို့လျှင် တည်ကြည်တော်မူလှပေသည်။

(ကျမ်းကိုး။ ဟင်္သာတမြို့၊ သပြေပင်ကျောင်းတိုက်၊ အဂ္ဂမဟာပဏ္ဍိတ မဟာဒွါရနိကာယ၊



ဒုတိယ မဟာနာယက၊ သိရိသောဘနထေရ်အရှင်၊ ငယ်စဉ်က ရေးသားအပ်သော မဟာဒွါရနိကာယ၊ သာသနာ့ဝံသဒီပနီ၊ လယ်တီမဏ္ဍိုင် ပုံနှိပ်တိုက်၊ ၁၃၃၆ ခု ၊ သီတင်းကျွတ်လ၊ စာ ၄၁၃ )

အခါတစ်ပါး ကျောလယ်၌ အနာပဆုတ်ပေါက်ရာ နာကျင်ကိုက်ခဲသည်ဟူ၍လည်းမမြွက်ဟ၊ တစ်ကြိမ်မျှလည်း ညည်းညူတော်မမူချေ။ အနာ၏ အခြေအနေကိုလည်းမမေး၊ ရေဆေးရန် ဆေးလိမ်းရန်ဟု လျှောက်လျှင်သာ ဆေးကြောခြင်းဆေးလိမ်းခြင်းကို ခံတော်မူသည်။ ဆေးလိမ်းတိုင်းမည်သူ၏ ဆေးနည်းဟူ၍ကားမေးတော်မူ၏။ ဤသို့ဖြင့် ရောဂါအနာမသက်သာ အနာဝကျယ်ပြော၍ ပျောက်ခဲသောအခြေသို့ ရောက်လေ၏။ ထိုအကြောင်းကို တစ်ဆင့်စကားတစ်ဆင့်နားကြားသိရသဖြင့် ရှေးအခါက ဆရာတော်ဘုရားကြီးအထံ၌ နည်းခံတပည့်အဖြစ်ဖြင့် နေဖူးလျက် ဝါသနာအစွမ်း ကိန်းခန်းဗေဒင် ဓာတ်ဆင်ဆေးကု ပြုမူသောကိစ္စကြောင့် ဂိုဏ်းမှအပပြုအပ်သော ' ဦးမြူးဝံ' ခေါ် ဘုန်းတော်ကြီးသည် ဆရာတော်ဘုရားကြီးအား ကြည်ညိုလေးမြတ်သည့်အလျောက် အလျင်အမြန် ပျောက်ကင်းချမ်းသာစေလိုလျက် လူတစ်ယောက်ကို မည်သို့မည်ပုံ ပြုလုပ်ရမည်ဟု မှာထားပြောဆိုလျက် ဆေးနည်းနှင့်တကွ ဖယောင်းချက်ကို အလုပ်အကျွေး ဖြစ်သော ဆရာတော် ဦးဝေသဏ္ဍထံ ပေးပို့စေသည်။

ဆရာတော် ဦးဝေသဏ္ဍက အနာကို ဖယောင်းချက်ကပ်ရန် လျှောက်ထားရာ 'ဘယ်သူ၏ ဖယောင်းချက်နည်း'ဟု မေးတော်မူသည်။ 'အုဂ်ဖိုရှိ ဦးမြူးထံက ပေးပို့စေအပ်သော ဖယောင်းချက်ကိုပါ ဘုရား' ဟု လျှောက်လျှင် 'ဝေသဏ်၊ ငါ၏ အနာရောဂါသည် အလဇ္ဇီ၏ ဖယောင်းချက်နှင့် မတန်မရာ၊ ဤဝေဒနာကြောင့် သေစေကာမူ အလဇ္ဇီ၏ ဖယောင်းချက်ကို မကပ်နှင့်၊ အခြားသို့သွား၍ စွန့်ပစ်လိုက်' ဟု မိန့်တော်မူသည်။

ဤသို့လျှင် ဆရာတော်ဘုရားကြီးသည် သမာဓိ ပတ်ကြီးမြတ်တော်မူသဖြင့် အသက်၏ အန္တရာယ်ဖြစ်လောက် ဖွယ်သော အနာရောဂါကိုမျှကြောင့်ကြမစိုက်၊ ဂရုပြုတော် မမူသည့်ပြင် အသက်ကိုသော်လည်း စွန့်လွှတ်အံ့ အလဇ္ဇီ၏ ပစ္စည်းကိုကား မသုံးဟု ရှုမှန်းတော်မူပေသတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၃-၄၁၄ )

အခါတစ်ပါး၌ အုဂ်ဖိုရ်မြို့နေ ဒါယကာ ဒါယိကာမတို့သည် ဝါခေါင်လအခါ ခြောက်ယောက်ခပ် ကူးတို့လှေကြီးတစ်စင်းငှား၍ ဆွမ်းကွမ်းကပ်လှူရန် လက်ပံရွာသို့လာကြရာ သမ္ဘုရာတိုင်းရွာသို့ ရောက်သောအခါ ကူးတို့လှေကြီးတစ်စင်းပေါ်၌ ကြက်ခြင်း၊ ဘဲခြင်း၊ အများအပြားပါလာသည်ကို တွေ့ရှိ၍ အလုံးစုံကို ဝယ်ယူခဲ့ပြီးလျှင် ဆရာတော်ဘုရားကြီးကို လျှောက် ထား၍ ကျောင်းတိုက်အတွင်း၌ ဇီဝိတဒါန အဘယအလှူ ပြုမူကြကုန်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၄ )

ထို ကြက် ဘဲတို့မှ အဆင့်ဆင့်ပေါက်ပွားများပြားလာသောအခါ တစ်ကောင်ကို တစ်ကောင်လိုက် အော်ကြတွန်ကြနှင့် အသံမစဲဘဲရှိလေ၏။

> တစ်နေ့သော မွန်းလွဲချိန်အခါ၌ စစ်တကောင်းမျိုး ကြက်ကြီးတစ်ကောင်အကြောင်းမဲ့ သက်သက် အော်ဟစ်မြည်တွန်နေသည်ကို အင်္ဂပူဆရာတော်ကြီးသည် နားငြီးတော်မူလှသဖြင့် ကျောင်းသားတစ်ယောက်ကို ထိုကြက်ကြီးကို မောင်းစေတော်မူ၏။ ကျောင်းသားလည်း ခဲဖြင့်ပစ်ခတ်မောင်းနှင်ရာ ကြက်ကြီးသည် ကြောက်လန့်တကြား ဆရာတော်ဘုရားကြီး ကျောင်းအောက်မှ ဖြတ်၍ ပြေးလေ၏။

ကျောင်းသား ကြက်လိုက်သောအသံကို ဆရာတော်ဘုရားကြီး ကြားတော်မူ



လျှင် 'ဇေယျ ဇေယျ' ဟု ဦးဇေယျကို ခေါ်တော်မူပြီးလျှင် 'ကြက်လိုက်သောကျောင်းသားကိုခေါ်လိုက်စမ်း'ဟု မိန့်တော်မူ၏။

ဦးဇေယျကိုခေါ်၍ ကျောင်းသားရှေ့တော်သို့ ရောက်လျှင် 'ကြက်လိုက်သောသူ မောင်မင်းလား'ဟု မေးတော်မူ၏။ 'မှန်လှပါဘုရား' ဟု လျှောက်လျှင် 'ဘယ်သူစေခိုင်းသနည်း' ဟု မေးတော်မူ၏။ 'ဦးပဥ္စင်းကြီးက လိုက်ခိုင်းပါသည်ဘုရား' ဟု လျှောက်ရာ (ဆရာတော်ဘုရားကြီး သက်တော်ထင်ရှား ရှိစဉ်၌ တိုက်တွင်း၌ ရဟန်းသာမဏေ ကျောင်းသားတို့သည် အဂ်ပူဆရာတော်ကြီးကို 'ဦးပဥ္စင်းကြီး'ဟု ခေါ်ဝေါ်ပြောဆိုကြကုန်၏။ ဂိုဏ်းဝင်သံဃာတို့ကား လက်ပံလှ ဘုန်းကြီးဟု ခေါ်ဝေါ်ပြောဆိုကြကုန်၏။) 'ဘုန်းကြီးက ကျောင်းသားများကို ကြက်မလိုက်ခိုင်းရဘူးဟု ဝိစိတ္တကို ပြောလိုက်' ဟု မိန့်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၄)

အမိန့်တော်အတိုင်း လျှောက်ထားသောအခါ အဂ်ပူဆရာတော်ကြီးသည် ထိုအခါမှစ၍ ကြက်သံဘဲသံများကို သည်းမခံနိုင်လောက်အောင် နားငြီးမိစေကာမူ ဘယ်အခါ၌မျှ အမောင်းစေခိုင်းတော်မမူ၊ ဆရာတော်ဘုရားကြီး မိန့်တော်မူချက်ကို ဦးထိပ်ရွက်ပန်ဆင်၍ ကျိုးနွံလေးစား ဂါရဝစိတ်ထားဖြင့် မှတ်သားနာယူတော်မူသည်။

အခါတစ်ပါး ဝဲန်မြစ်ကမ်း မဲဇလီရွာသို့ကြွတော်မူ၍ တရားဟောမဏ္ဍပ်၌ ပက်လက်ကုလားထိုင်ပေါ်ဝယ် ဖဝါးခြေနှစ်ဖက်ကို အောက်သို့ချတော်မူလျက် သီတင်းသုံးတော်မူပြီးလျှင် ဒါယကာ ဒါယိကာမတို့အား တရားဓမ္မဟောပြနေတော်မူစဉ် ကင်းခြေများတစ်ကောင်သည် ရှောင်တခင် ရုတ်တရက် အထက်အမိုးမှကျလာ၍ ခြေဖမိုးတော်၌ ကိုက်ခဲလေ၏။

ဆရာတော်ဘုရားကြီးသည် ယင်းသို့ကိုက်ခဲစေကာမူ ဝေဒနာကို ပဓာနမထားဘဲ တရားပွဲပြီးလတ်အောင်ကြီးမြတ်သောသမာဓိဖြင့် အဓိဝါသနာခန္တီ ကွန့်ချီဆောင်ရွက်၍ မပျက်မကွက် ဆက်လက်ဟောပြောတော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၅ )

လက်ပံလှရွာ အဇိနာရာမ ကျောင်းတိုက်အနီး ဘေးမဲ့အင်းကြီးအတွင်း၌ ကျောင်းဆိပ်၏မြောက်အတောင်ငါးဆယ်ခန့် တစ်ဆယ့်နှစ်တောင်ဝေးသော ရေအမြဲတည်ရာ၌ ခန်းဖွင့်ငါးတောင်လေးပင်သုံးပင် သိမ်ကျောင်းတစ်ဆောင် ဆောက်လုပ်ထားသည်။

ထိုသိမ်၌ နံနက်ရှစ်နာရီအချိန်မှာ ဥပသမ္ပဒကံ ဆောင်ရွက်ရာ တောင်ဘက်ခေါင်တိုင်ကိုမှီ၍ ဆရာတော်ဘုရားကြီး သီတင်းသုံးတော်မူလျက်ရှိစဉ် အဆောက်အအုံကကြာမြင့်သဖြင့် ယက်မဆင့်တို့ ဆွေးမြေ့ခြင်းကြောင့် ရုတ်တရက် ကျိုးပျက်ကျရာ ရဟန်းလောင်းနှင့်တကွ သံဃာတော်အားလုံး ရေထဲသို့ကျရောက်လေ၏။

ဆရာတော်ဘုရားကြီး သီတင်းသုံးရာ တစ်ခန်းတွက် ယက်မတစ်တန်းသာ မကျိုးမပျက် ပကတိအတိုင်းတည်ရှိနေ၏။

ဆရာတော် ဘုရားကြီးသည် တိုင်၌မှီလျက်ပင် တင်ပျဉ်မပျက် ထက်ဝယ်ဖွဲ့ခွေက္ကန္ဓြေကြီးစွာဖြင့် သီတင်းသုံးနေတော်မူလေသည်။

ရဟန်းသံဃာ ဒါယကာ ဒါယိကာမအပေါင်းတို့သည် နှစ်ထောင်းရှင်လန်း ချီးမွမ်းအံ့သြကြပြီးလျှင်



လေ့ငယ်ဖြင့် ပင့်ယူကြကုန်သည်။ ဤသို့လျှင် သမာဓိဓာတ်ကြီးမြတ်တော်မူလှပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၅ )

ဆရာတော်ဘုရားကြီးသည် ဆွမ်းဘုဉ်းပေးတော်မူချိန် ကျိန်းစက်တော်မူချိန်မှတစ်ပါး အခြားအချိန်များ၌ အမြဲတမ်း စာကြည့်တော်မူသည်။

ညအချိန်စကြံကြွတော်မူရာ၌ပင် တစ်ခါတရံ 'ဟဲ့ - ဇေယျ မည်သည့်စာထုပ်ကိုဖြေစမ်း၊ မည်သည့် ပေချပ်ကို လှန်၊ မည်သည့်စာကြောင်းကို ဖတ်စမ်း၊ အေး တော်ပြီ သိမ်းဆည်းလိုက်တော့' ဟု မိန့်တော်မူသည်။

ကျောင်းပရိဝုဏ်အတွင်း၌ပင် ကြွဆင်းလှည့်လည်တော်မမူ၊ စာကြည့်တော်မူချိန်အတွင်း၌ ရောက်လာဖူးမြော်ကြကုန်သော ဂုဏ်ရှိဂုဏ်မဲ့ ဒါယကာ ဒါယိကာမ မည်မျှပင် များပြားစေကာမူ စာကြည့်ချိန်မကုန်သမျှ ဓမ္မဒေသနာ ပဋိသန္ထာရအမှုပြုတော်မမူချေ။ တည်ကြည်သောသမာဓိ ရှိတော်မူသည်ဖြစ်၍သာလျှင် အချိန်အပိုင်းအခြား ကုန်ဆုံးအောင် စာကြည့်တော်မူလျက်သာ နေတော်မူသည်။ အချိန်အပိုင်းအခြား ကုန်ဆုံးသောအခါရောက်မှ ကုလားထိုင်သို့ ကြွတော်မူ၍ ဒါယကာ ဒါယိကာမတို့အား တရားဟောခြင်း စကားပြောခြင်းကို ပြုတော်မူသည်။

ဆရာတော်ဘုရားကြီးသည် ဆွမ်းဘုဉ်းပေးတော်မူပြီးနောက် ကုလားထိုင်ပေါ်၌ ထိုင်တော်မူ၍ နောက်မှီကိုမှီပြီးလျှင် လက်တော်နှစ်ဖက်ကို ပေါင်ပေါ်၌တင်လျက် သီတင်းသုံးနေတော်မူလေ့ရှိ၏။ တရားကျင့်သုံး နှလုံးသွင်းနေတော်မူဟန်ရှိ၏။

ကုလားထိုင်နှင့် ဗီရိုကြား တစ်ယောက်သွားသာရုံမျှသော ဌာန၌မည်သူဝင်ဝင် မည်သူထွက်ထွက် မေးမြန်းတော်မမူချေ။ ခွေးကြက်စသည်တို့ အော်မြည်ဆူညံသော်လည်း မည်သို့မျှမိန့်တော်မမူ၊ ဤသို့လျှင် သမာဓိဓာတ် ကြီးမြတ်တော်မူပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၆)

အခါတစ်ပါး ကထိန်လှူပွဲ ဆင်နွဲကြရာ နံနက်ချမ်းအခါ၌ နီးနားဝန်းကျင်ရွာအပေါင်းမှ လူငယ်လူရွယ်တို့သည် တစ်ဦးထက်တစ်ဦး တစ်ရွာထက်တစ်ရွာ အနိုင်ရအောင် အပြိုင်အဆိုင် တီးမှုတ်ကခုန်အော်ဟစ်မြည်ကြွေးကြကုန်လျက် လှူဒါန်းဖွယ်ရာ ပဒေသာပင်တို့ကို ကိုယ်စီ ထမ်းပိုးလာကြကုန်၏။ ကျောင်းတွင်း၌လည်း အချိန်ရသမျှ တီးမှုတ် ကခုန် အော်ဟစ် မြူးတူးကြကုန်၏။

ကထိန်ကိစ္စ ပြီးဆုံး၍ ညနေ ၄ နာရီအချိန်ခန့်၌ ဘိုးကျော်စံ အမည်ရှိသော ဒါယကာကြီးက ဆရာတော်ဘုရားကြီးထံ ဝင်ရောက်ဖူးမြော်ရင်း 'အရှင်ဘုရား နံနက်က အတီးအမှုတ်အကအခုန်တွေ ဆူညံလွန်းသောကြောင့် တပည့်တော် မြောက်ဘက် ဥယျာဉ်ဖျားသို့ သွားနေရပါတယ်' ဟု လျှောက်လျှင် ဆရာတော်ဘုရားကြီးက 'မွန်းကျော်စံ မင်းပဲ ကြားတတ်သကွယ် ငါဖြင့် ကြားပဲမကြားပါဘူး' ဟု မိန့်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၆)

ဤသို့ကျောင်းပရိဝုဏ်အတွင်း၌ ပြင်းပြင်းထန်ထန် ဆူညံသော အသံများကိုပင် မကြားမသိ သမာဓိဓာတ် ကြီးမြတ်တော်မူလှပေသည်။

အခါတစ်ပါး ဆရာတော်ဘုရားကြီး ခရီးဒေသစာရီ ကြွချီတော်မူရန် ပက်လက်ကုလားထိုင် ခြေလေးချောင်းတို့၌ ထောင့်တန်းကပ်ပြီးလျှင် ဇာဝီစုတ်ထား၏။ ထိုထောင့်တန်း၌ သံကွင်းလေးခု ခိုင်ခံ့စွာ



တပ်ပြီးလျှင် ထိုသံကွင်း၌ အုန်းဆံကြိုးကွင်းတပ်ချည်၍ ထိုအုန်းဆံကြိုး၌ ထမ်းပိုးလျှို၍ လူလေးယောက် ထမ်းရန် စီမံပြုလုပ်အပ်သော ထမ်းစင်တစ်ခုရှိ၏။

သီတင်းသုံးတော်မူ၍ လူလေးယောက်ကို ထမ်းစေပြီးလျှင် လက်ပံလှရွာ အဇိနာရာမ ကျောင်းတိုက်မှ တောင်ဘက်ပေါက် ခရီးစဉ်အတိုင်းကြွတော်မူရာ ရေတွင်းနှင့် ဗောဓိပင်အလွန် ကြိုးကွင်းတစ်ဖက်ပြတ်သောကြောင့် အသာအယာ ထမ်းစင်ကို မြေသို့ချပြီးလျှင် ကြိုးအသစ်တပ်ဆင်ရ၏။ သည်အချိန် အတွင်း၌ မည်သို့မျှ မေးမြန်း ပြောဆိုခြင်းပြုတော်မမူ။ ကြိုးအသစ် တပ်ဆင်ပြီးသောအခါမှ 'ဟင် ဘာလုပ်ကြ သနည်း' ဟု တစ်ကြိမ်သာမေးတော်မူ၏။ 'ကြိုးဆွေးပြတ်ကျသောကြောင့် အသစ်လဲ လှယ်ချည်နှောင်ပါသည်ဘုရား' ဟု လျှောက်သော်လည်း မည်သို့မျှမိန့်ကြားတော်မမူ၊ ဤသို့လျှင် သမာဓိစာတ် ကြီးမြတ်တော်မူလှပေသတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၇)

ဆရာတော်ဘုရားကြီးကား ဓာတ်သဘာဝ၌ ကျကျနနအရန်နိုင်းရှည့် သဘောမိတော်မူသည့်ပြင် ဆေးဗိန္ဒောခန်း အကျမ်းကျမ်း၌လည်း ကျွမ်းကျင်လိမ္မာကောင်းစွာသိမြင်တော်မူလေသည်။ ဓမ္မဂရုက ပုဂ္ဂလဝိသေသ ဖြစ်ကြီးဖြစ်သဖြင့် ဆေးကျမ်း ဓာတ်ကျမ်းတို့၌ မကျွမ်းကျင်ပေရာဟု မှတ်ထင်ဖွယ်ရှိ၏။ ဤသို့ကားမဟုတ်၊ ဆေးကျမ်း ဓာတ်ကျမ်းတို့၌ ကျွမ်းကျင်တတ်မြောက် ချီးကျူးလောက်ပါပေသည်။

အုဂ်ဖိုရ်မြို့ ကန်ကုန်းကျောင်းတိုက်၌ သီတင်းသုံးနေတော်မူသောအခါ ဦးကုသလ မည်သော ရဟန်းတော်တစ်ပါးသည် အပြင်းအထန် လူမှန်းသူမှန်းမသိအောင် တက်ဖျား၊ ကျဖျား၊ အပူများ၊ ဖျားနာလေ၏။ ဓာတ်ဗိန္ဒောဆရာတို့ဖြင့် အမျိုးမျိုး ကုသကြသော်လည်း အနည်းငယ်မျှသာ သက်သာခွင့်ရ၍ ပျောက်ကင်းအောင် မစွမ်း နိုင်ကြ၊ အပြင်းအထန် အဖျားတက်ပြန်သည်သာဖြစ်သောကြောင့် အမိ အဘ ဒါယကာ ဒါယိကာမတို့နှင့်တကွ ရဟန်းတော်ကြီးတို့သည် စိုးရိမ်ကုန်၏။ စိတ်မချ ကြသည်ဖြစ်၍ ဆရာတော်ဘုရားကြီးအား လျှောက်ထားကြကုန်၏။ ဆရာတော် ဘုရားကြီးက 'ဆရာကောင်း သမားကောင်းများဖြင့် မကုသကြဘူးလား'ဟု မေးတော် မူရာ 'ဆရာကောင်းသမားကောင်းများဖြင့် ကုသကြပါကုန်၏ သို့သော်လည်း ခဏ မျှသာသက်သာ၍ မပျောက်ကင်းပါ။ စိုးရိမ်ဖွယ်ရာရှိပါသည် ဘုရား'ဟု လျှောက်ထား ကြကုန်၏။

ဆရာတော်ဘုရားကြီးသည် အဖျားတက်ပုံ အခြင်းအရာ လူမမာ၏ သဘော လက္ခဏာတို့ကို မေးမြန်းတော်မူပြီးလျှင် 'နက်ဖြန်နံနက်၌ ငရုတ်သီးစိမ်းနှင့် ရှောက်သီး သုပ်ပြီးကျွေး၊ စောစောကပင် ရေများများခပ်ထား၊ အဖျားတက်လာလျှင် ရေနိုင်နိုင် လောင်း၍ချိုးပေး၊ ကိုယ်တွင်းအေး၍ ချမ်းလာသောအခါ ရေချိုးရပ်၍ စင်ကြယ်စွာ ပွတ်သတ်ပြီးလျှင် စောင်ခြုံ၍အိပ်ပါစေ၊ ချွေးဖြိုင်ဖြိုင်ထွက်၍ အဖျားပြတ်လိမ့်မယ်' ဟု မိန့်တော်မူလိုက်၏။

နောက်နေ့နံနက်၌ မိန့်တော်မူသည့်အတိုင်း ရှောက်သီးသုပ်ကျွေး၍ ရေချိုးပြီး အိပ်စေရာ ချွေးဖြိုင်ဖြိုင်ထွက်၍ အဖျားရောဂါပျောက်ကင်းလေ၏။ ဓာတ်ချက် တစ်ခု ဖြင့်ပင် ရောဂါပျောက်၏။ အံ့ဩဖွယ်ရှိပေစွ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၈)



အခါတစ်ပါး လက်ပံလှရွာ အဇိနာရာမကျောင်းတိုက်၌ သီတင်းသုံးနေတော်မူ၏။ ထိုအခါ အလုပ်အကျွေး ကပ္ပိယဘိုးရွှေပြည်၏သား ဆရာတော်ဦးဝေသာဝဏ္ဏသည် ဆရာတော်ဘုရားကြီးအား လုပ်ကျွေးလျက်ရှိ၏။ ထိုအခါ၌ မောင်ဘစံမည်သော ကျောင်းသားတစ်ယောက်သည် အစ်ကိုဖြစ်သူ ဦးဝေသာဝဏ္ဏထံသွားရောက်နေခိုက် အကြီးအကျယ် ဝမ်းခေါင်းသံဖြင့် မကြာမကြာ ချောင်းဆိုးလေ၏။

ဆရာတော်ဘုရားကြီး ကြားတော်မူလျှင် 'ဝေသာဝဏ် ချောင်းဆိုးသောသူ မည်သူနည်း' ဟုမေးတော်မူ၏။ 'ဘုရားတပည့်တော်၏ညီ ဘစံပါဘုရား'ဟု လျှောက်လျှင် 'ငါ့ထံ လွှတ်လိုက်စမ်း'ဟု မိန့်တော်မူ၏။ ဆရာတော်ဘုရားကြီးထံမှောက်သို့ ကျောင်းသား မောင်ဘစံရောက်လျှင် 'ဘစံရောက်ပါပြီဘုရား'ဟု ဝမ်းခေါင်းသံဖြင့် ချောင်းဆိုးလျက် လျှောက်ထား၏။

ဆရာတော်ဘုရားကြီးက 'မောင်မင်းချောင်းဆိုးပျောက်ချင်သလား' ဟု မေးတော်မူ၏။ 'ပျောက်ချင်ပါတယ်ဘုရား'ဟု လျှောက်လျှင် 'အုန်းသီးမနုမရင့်တစ်လုံး ပတဲကော၊ ကျောက်ပျဉ်တစ်ချပ်ရှာခဲ့၊ အုန်းသီးကို အခွံနွှာယူခဲ့'ဟု မိန့်တော်မူ၏။

မောင်ဘစံက မည်သို့မျှ မရှာဖွေတတ်သောကြောင့် ဆရာတော် ဦးဝေသာဝဏ္ဏကို လျှောက်ထားရာ ဆရာတော်ဦးဝေသာဝဏ္ဏက ရှာဖွေပေးရ၏။ အလုံးစုံရရှိကြောင်းကို ဆရာတော်ဘုရားကြီးအားလျှောက်ထားလျှင် ဆရာတော်ဘုရားကြီးက အုန်းသီးကိုခွဲစေ၍ အရည်ကို ဖန်ခွက်၌ထည့်စေ၍ ပတဲကောကို ကျောက်ပျဉ်၌ ပျစ်ပျစ်များများသွေးစေပြီးလျှင် အုန်းရည်နှင့်ထည့်စေပြီးနောက် မွှေနှောက်၍ အကုန်သောက်စေတော်မူ၏။

ကြောက်ရွံ့သောကြောင့်သာ ဖွတ်နှစ်၍ အတင်းသောက်ရသည်။ အလွန်ခါးသောဟူ၏။ နောက်တစ်နေ့၌ ချောင်းဆိုးရောဂါ ပျောက်ကင်းလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၉)

ဤသို့လျှင် ဆေးတစ်ခွက်ဓာတ်တစ်ချက်ဖြင့် သက်သာပျောက်ကင်းအောင် စွမ်းဆောင်တော်မူနိုင်လေသတည်း။

၁၈၈၀ အေဒီ ၁၈၈၀ ခု (သက္ကရာဇ် ၁၂၄၂ ခုနှစ်) ၌ ပုသိမ်မြို့ မိဂဒါရုံတိုက် ဆရာတော်ဘုရားကြီးက သိမသမ္မုတိ ကံဆောင်ရွက်ရန် ပင့်လျှောက်တော်မူသောကြောင့် ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ဟင်္သာတမြို့ လယ်တီဆရာတော်ဘုရားကြီး လက်ပံတန်းမြို့ ဗောဓိဝန်ဆရာတော်ဘုရားကြီး စစ်ကွင်းမြို့ ကုသိနာရုံ ဆရာတော်ဘုရားကြီး အစရှိသော တပည့်သုံးကျိပ်မျှနှင့်တကွ ကြွသွားတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၁၉)

၁၈၈၁ ဆရာတော်ဘုရားကြီးသည် လိုက်လိုသော တပည့်သံဃာတော် ရှစ်ပါး၊ ဒါယကာသုံးယောက်နှင့် အေဒီ ၁၈၈၁ ခု၊ ဖေဖော်ဝါရီလ ၁၂ ရက်၊ ကြာသပတေးနေ့ (၁၂၄၂ ခုနှစ် တပို့တွဲလဆန်း ၁၂ ရက်နေ့) မဟာဗောဓိသို့ ကြွရောက်တော်မူသည်။ ထိုအခါ မဟာဗောဓိပင်ကြီး ကွယ်လွန်တော်မူ၍ ထိုနေရာ၌ မဟာဗောဓိငယ်သာ ထင်ရှားရှိလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၀ )



ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် မဟာဗောဓိပင်ကို ရှိခိုးပူဇော်ပြီးလျှင် ကာလကတ္တားသို့ ကြွရောက်၍ သင်္ဘောစီးရန် ခေတ္တစောင့်ဆိုင်းနေတော်မူစဉ် မြင်ကွန်းမင်းသားကြီး သုမဟာသီရိမွေ ရာဇာသည် ဗာရာဏသီမြို့၌ အစောင့်အကြပ်နှင့် မြို့ချုပ်ခံနေရသည်ဖြစ်၍ ဆရာတော်ဘုရားကြီး မဟာဗောဓိသို့ ကြွလာတော်မူလာသည်ကို ကြားသိတော်မူလေလျှင် မိမိအကြီးတော်တစ်ယောက်ကို စေလွှတ်လျှောက်ထားလိုက်သည်ကား -

'တပည့်တော်သည် ယခုအခါ သွားလိုရာသို့ မသွားရ၊ နေလိုရာ၌မနေရ၊ အလွန်ကျဉ်းမြောင်းကျပ်တည်းလှပါသောကြောင့် အရှင်သူမြတ်ထံ ကိုယ်တိုင်လာရောက်၍ ရှိမခိုးနိုင်ပါ၊ အရှင်သူမြတ်ကဲ့သို့သော သီလဝန္တသိက္ခာကာမပုဂ္ဂိုလ်များကို ရှိခိုးရပါက ကျဉ်းမြောင်းခြင်းမှ လွတ်ကင်းလိမ့်မည့် နှလုံးပိုက်၍ အပင့်စေရပါသည်။ ကြွလာတော်မူ၍ တပည့်တော်၏ ရှိခိုးပူဇော်ခြင်းကို ခံတော်မူပါဘုရား' ဟု လျှောက်လွှာနှင့် အတူ ပင့်လျှောက်လာသည်။

ထိုအခါ ဆရာတော်ဘုရားကြီး အမိန့်တော်ရှိလိုက်သည်ကား အောက်ပါအတိုင်းဖြစ်၏။

'ယခု မြန်မာပြည်သို့ပြန်ရန် တပည့်အပေါင်းနှင့်တကွ သင်္ဘောလက်မှတ်များ ယူပြီးသည်ကတစ်ကြောင်း၊ နာမကျန်းသော တပည့်များရှိသည်ကတစ်ကြောင်းကြောင့် ဆရာမလိုက်နိုင်ပြီ။

**ဆရာကို ရှိမခိုးရသော်လည်း ကျဉ်းမြောင်းခြင်းမှ လွတ်ကင်းချမ်းသာအောင် ဆရာကဘုရားဟောဂါထာကိုပေးလိုက်မည်၊ ယင်းဂါထာကို နေ့ညမပြတ်ရွတ်ဖတ်သရဇ္ဈာယ်လေ'ဟု မိန့်တော်မူ၍ ဒေဝတာသံယုတ် ပါဠိတော်လာရာဟုဖမ်းသောအခါ နေနတ်သား လနတ်သားတို့ အလွန်ကျဉ်းမြောင်းခြင်းသို့ ရောက်သဖြင့် မြတ်စွာဘုရားကို ရှိခိုးအပ်သော 'နမောတေဗုဒ္ဓ ဝီရတ္ထု' စသော ဂါထာ၊ ဘုရားကိုယ်တော်မြတ်က ရာဟုအသူရိန်နတ်တို့ ရွတ်ဖတ်ပြောဆိုအပ်သော 'တထာဂတံအရဟန္တံ'စသော ဂါထာ၊ ကိုယ်တော်တိုင် စီကုံးရေးသားအပ်သော 'ဗုဒ္ဓကိုရောသသရာဇာ' စသော ယုန်မင်းရှိခိုး ဂါထာများကို ချက်ခြင်းရေးသား၍ ပေးတော်မူလိုက်သည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၀)

ကာလကတ္တားမြို့ ဗဟုဗဇာရပ် တိုက်အမှတ် ၂၇၊ ပွဲစားကြီး ဦးထွန်းအောင်ဖြူ တိုက်၌ ခြောက်ညမျှ သီတင်းသုံးတော်မူ၍ 'ကုန်မီလာ'မည်သော မီးသင်္ဘောဖြင့် စစ်တွေမြို့သို့ ကြွတော်မူပြီးနောက် စစ်ကဲကျောင်းတိုက်၌ တည်းခိုတော်မူ၍ တရားမွေ့ဟောပြောပြသတော်မူသည်။ စစ်တွေမြို့မှ 'ယက္ခ' မည်သော မီးသင်္ဘောကို စီးနင်းတော်မူ၍ ရန်ကုန်မြို့သို့ ဆိုက်ရောက်တော်မူသည်။

ဤကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် အကျဉ်းအမြောင်း အချုပ်အနှောင် ခံနေရခြင်းကြောင့် လွတ်ကင်းချမ်းသာရန်အကျိုး ရှိခိုးလိုကြောင်းဖြင့် မြင်ကွန်းမင်းသားကြီး လျှောက်ထားတောင်းပန်ရာ ဝိစာရဏာဉာဏ်ဖြင့် ဝေဖန်ချင့်တွေး၍ အတွေ့ခံတော်မမူ၊

ကျဉ်းမြောင်းခြင်းမှ လွတ်ကင်းရာ လွတ်ကင်းကြောင်း ကောင်းစွာထင်ထင် ဆင်ခြင်တော်မူ၍ သဂါထာဝဂ္ဂသံယုတ်ပါဠိတော်လာ စန္ဒသုတ် သူရိယသုတ်ဂါထာများကိုလည်းကောင်း၊ တစ်ကမ္ဘာပတ်လုံး တည်နေသော ဘုရားလောင်း ယုန်မင်းရုပ်ကို ရှိခိုးသဖြင့် သူ၏အသက်သည်လည်း အာယုကပ်ပတ်လုံး တည်နေရလတ္တံ့ဟု ဆင်ခြင်



တော်မူ၍ သသရာဇာ ရှိခိုးဂါထာကိုလည်းကောင်း၊ ပေးတော်မူလိုက်ခြင်းကား မိမိလည်း လောကီအပြစ်မှ ကင်းလွတ်၊ ရာဇဝတ်မကင်းသော မင်းသားကြီးကိုလည်း ချမ်းသာစေတော်မူရန် ရည်သန်တော်မူသော ဝိစာရဏာဉာဏ် အရာပေတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၁)

မြင်ကွန်းမင်းသားကြီးလည်း ဆုံးမပေးသနားတော် မူအပ်သည့်အတိုင်း လိုက်နာတော်မူသောကြောင့် အကျယ်ချုပ်ထားရာ ဗာရာဏသီမြို့မှ လွတ်မြောက်နိုင်၍ ပြင်သစ်အစိုးရပိုင် ချန်တာနဂိုရ်မြို့သို့ ရောက်လေသည်။ ချန်တာနဂိုရ်မှ တစ်ဖန် ပြင်သစ်ပိုင် ပွန်တီချာရီမြို့သို့ရောက်၏။ ထိုမှတစ်ဖန် ယိုးဒယားပြည်အရှေ့ ပြင်သစ်အစိုးရပိုင် ဆေဂုံမြို့သို့ရောက်၍ သက်တော် ၇၈ နှစ်မှာ ဘဝပြောင်းလေသည်။

## သစ်နက်ရေ သစ်နက်ရိုး သစ်နက်သွေးတို့ကို အလှူခံတော်မူရခြင်း

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် လက်ပံလှရွာ နန်းတော်ကုန်းရွာ သက်ငယ်ပြင်ရွာ အစရှိကုန်သောရွာတို့ကို ဂေါစရဂါမ်ပြုတော်မူလျက် လက်ပံလှကျောင်း၌ ကိန်းအောင်းမွေ့လျော် စံနေ သီတင်းသုံးတော်မူ၍ ဓုရနှစ်ပါးကို ပွားများအားထုတ်နေတော်မူ၏။

၁၈၈၃ အေဒီ ၁၈၈၃ ခု၊ ဖေဖော်ဝါရီလ ၂၃ ကို၊ သောကြာနေ့ (၁၂၄၄ ခုနှစ် တပေါင်းလဆုတ် ၃ ရက်နေ့) ညဥ့်သန်းခေါင်အချိန် အိပ်မက်မြင်တော်မူသည်ကား -

အခါတစ်ပါး သတ္တဝါများကို တရားရေအေးတိုက်ကျွေးဆုံးမနေတော်မူစဉ် နီသာနာထ တောက်ပဝင်းလျှံ လဗိမာန်သည် တိမ်ယံဘုံရပ်မှ ကြွေပြုတ်သက်လျောလာသည်ကို နတ်သားတစ်ယောက်သည် လက်မြှောက်သိမ်းပိုက်ယူငင်လေသည်။

ထိုအခါ လူအပေါင်းတို့သည် သောင်းသောင်းညံညံ အသံ ဥဒဟို ပြောဆိုတောင်းရမ်းကြလေသော် ထိုနတ်သားက ပြန်ကြားပြောဆိုသည်မှာ ဘုရားမိန့်မှာ သာသနာကို မဟာကဿပ ထေရ်မြတ်လှ ကဲ့သို့ ထွန်းပစင်ကြယ်အောင် ရွက်ဆောင်အားထုတ်တတ်သော ပုဂ္ဂလဝိသေသ ပုရိသဇာနည် တည်ကြည်ဖြောင့်မတ် ယောက်ျားမြတ်နှင့်သာ အပ်စပ် ထိုက်တန်လေသည်တကား . . . ဟု ပြန်ကြားပြောဆို၍ ထိုပရိသတ်အထဲသို့ ထိုးဖောက်ခွဲဖြတ်ဝင်လျက် အရှင်ဆရာတော်ဘုရားကြီးအား လှူဒါန်းဆက်ကပ်လေသည်။

ဆရာတော်ဘုရားကြီးလည်း ထိုလဗိမာန်ကို အလှူခံတော်မူ၍ ရာဟုထောင့်အရပ်သို့ ယူဆောင်ကြွသွားတော်မူစဉ်ပင် ထိုလဗိမာန်သည် ပြဒါးပြာအဖြစ်သို့ ရောက်သွားလေသော် အော် . . . အံ့ဩစဖွယ် ဆန်းကြယ်လှပေ၏တကားဟု နှစ်သက်ဝမ်းမြောက်စွာ သာသနာတော်နေဝန်း ထွန်းလင်းစည်ကားအောင် အားထုတ်ချီးမြှောက် ထောက်ပံ့ရွက်ဆောင်ပေအံ့ . . . ဟု ကြံစည်တွေးဆတော်မူစဉ်ပင် နိုးကြားတော်မူလေသည်။

လေးရက်မြောက်သောနေ့၌ ထိုအိပ်မက်ကို တပည့်သံဃာတို့အား ပြန်ကြားမိန့်ဆိုတော်မူသည်။

၁၈၈၂ ထိုနှစ် အေဒီ ၁၈၈၂ ခု၊ ဧပြီလ ၄ ရက်၊ အင်္ဂါနေ့ (၁၂၄၄ ခု တန်ခူးလဆန်း ၂ ရက်နေ့) နာရီပြန် ၂ ချက်အချိန်ဝယ် အမျိုးအမည်အားဖြင့် မထင်ရှားသော



ယောကျ်ားတစ်ယောက်သည် မိမိ၏ဇနီးနှင့်တကွ ဆရာတော်ဘုရားကြီးထံ ဆည်းကပ်ရောက်လာ၍ 'သစ်နက်ရေ' ကို လှူဒါန်း ဆက်ကပ်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၂ )

ဆရာတော်ဘုရားကြီးလည်း သစ်နက်ရေကို ခံယူတော်မူပြီးလျှင် အမည်နေရပ်သို့ မေးမြန်းတော်မူသောအခါ ထိုဒါယကာကလျှောက်ထားသည်မှာ အလွန်ထူးဆန်းပါသည်။ ဖတ်ကြည့်ပါ။

'တပည့်တော်၏နေရပ်ကား မာရ်အောင်ကျွန်းဟု တွင်ပါသည်။ အပြည်ပြည်အရွာရွာသို့ သွားလာလှည့်လည်၍ ဗိန္ဓောကျမ်း ဆေးကျမ်းတို့ဖြင့် ကုသသော ဆရာကြီးမဟုတ်ပါ၊ ဆေးဝါးမဆောင်ဘဲ လက္ခဏာကြန်အင် မြော်မြင်ထောက်ရှု၍ ကုသပျောက်ကင်းစေပါသည်။

ငမိုးရိပ်ချောင်းဖျားသူနှင့် ကံကူဖြစ်လာ၍ မေတ္တာယှက်တင် ချစ်ခင်စုံမက်ပေါင်းဖက်လျက်နေစဉ် ဤ'သစ်နက်ရေ'ကို ကြုံတွေ့ရရှိသည်နှင့် လှူဒါန်းဆက်ကပ်လာပါသည်။

တပည့်တော် မရောက်လာမီ အိပ်မက်ကြီးစွာ မြင်မက်နှင့်ပါလိမ့်မည်။ ဤ 'သစ်နက်ရေ' ပေါ်၌ နေပျော် စံမွေ့တော်မူပါလျှင် ဂုဏ်ကျေးဇူး ညီးညီးတောက်သဖြင့် ကြီးမြောက်သောအိပ်မက်ကို မြင်မက်ပါလိမ့်မည်' ဟု လျှောက်ထား၍ လက်ပံလှရွာသို့ သွားရောက်တည်းခိုလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၃ )

ထိုဇနီးမောင်နှံနှင့် စပ်လျဉ်း၍ အံ့ဖွယ်ဖြစ်ရပ်ဆန်းများကိုဆက်လက် ကြုံတွေ့ရပါကြောင်း အံ့ဩဖွယ်ရာ ဖတ်ရှုခဲ့ရပါသည်။

၁၈၈၂ ထိုနှစ် အေဒီ ၁၈၈၂ ခု၊ ဧပြီလ ၆ ရက်၊ ကြာသပတေးနေ့ (၁၂၄၄ ခု၊ ထိုတန်ခူးလဆန်း ၄ ရက်နေ့)၌ ထိုဇနီးမောင်နှံတို့သည် မျိုးနှစ်ပြည်ဝင်ခန့်ရှိသော ခံတောင်းငယ်တို့မှ ယူငင်၍ မြင်မြင်သမျှ လူ အပေါင်းအား အချိုအချဉ် ခဲဖွယ်တို့ ကျွေးမွေးကြလေသည်။ (အံ့ဖွယ်ဖြစ်၏)

**ကျောင်းတော်သို့ လာရောက်၍လည်း ကပ္ပိယဦးခိုင်အထံ၌ သံဇလုံလေးငါးခု တောင်းယူပြီးလျှင် အနည်းငယ်မျှသာ ရှေ့ပြည်ဖူးလက်ဖက်ကို လက်ဖြင့် ဖန်တွယ်ချေမွှာ၍ဇလုံတို့၌ထည့်သည်၊ ဇလုံအားလုံးပြည့်လေသည်။ (အံ့ဖွယ်ဖြစ်၏)**

ထိုလက်ဖက်များကို သံဃာတော်များနှင့်တကွ ရွာသူရွာသား ခရီးသွားတို့အား ကျွေးမွေးကြလေသည်။ ထိုအခါ ရွာသားတစ်ယောက်က 'ဤလက်ဖက်ကို မြင်လျှင် အလွန်ပင်စားချင်ပါသည်' ဟု ညည်းညူလေသည်။ 'စားသာစားပါ မစိုးရိမ်ပါနှင့် ချမ်းသာပျောက်ကင်းပါလိမ့်မည်' ဟု ပြောဆိုတိုက်တွန်းကြသဖြင့် ယူငင်စားသောက်ရာ ထိုရောဂါပျောက်ကင်းလေသည်။ (အံ့ဖွယ်ဖြစ်၏)

ထို့နောက် ဒါယကာယောကျ်ားက 'အရှင်ဘုရား အလိုတော်မြတ်ရှိပါလျှင် တစ်သက်လုံးပင် မီးမလောင်နိုင်သော ဂါထာမန္တန်ကို လှူဒါန်းလိုပါကြောင်း' နှင့် လျှောက်တောင်းပန်လေသော် ဆရာတော်ဘုရားကြီးက 'ဒါယကာ၏ ကိုယ်တွေ့ကေန် အကယ်မှန်၏လော' ဟု မေးတော်မူလျှင် 'လူအများပင် ဝိုင်းဝန်း၍ မီးတိုက်စေကာမူ



စန္ဒကူးအနံ့နှစ်ကဲ့သို့ မီးမစွဲမလောင်နိုင်ပါ'ဟု လျှောက်ထားရာ ဆရာတော်ဘုရားကြီးက ဘေးနှင့်ကြုံသည့် မကြုံသည်မှာ ကံသာလျှင် အရင်းဖြစ်ချေသည်ဟု ဟောပြောတော်မူလေသည်။ (အံ့ဖွယ်ဖြစ်၏)

ထို့နောက် ဒါယကာလည်း 'တပည့်တော်သည် အရှင်ဘုရားထံမှောက်မှ ခြောက်ရွာသို့ သွားပါဦးမည်' ဟုလျှောက်ထား၍ ပြန်သွားလေသတည်း။

**(အံ့ဖွယ်ဖြစ်၏)**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၄ )

အခါတစ်ပါး၌ ဆရာတော်ဘုရားကြီးသည် 'သစ်နက်ရေအခင်း'ထက်၌ ကျိန်းစက်တော်မူလေလျှင် အရပ်ရှစ်မျက်နှာလုံး ထစ်ချုန်းမြည်ဟီး မိုးသီးမိုးပေါက်တို့နှင့်တကွ မိုးကြီးသည်းထန်စွာ ရွာလတ်သော် ဆရာတော်ဘုရားကြီးသည် မိုးသီးမိုးပေါက်တို့ကို နတ်သုဓာဘုတ်ကဲ့သို့ နှစ်ခြိုက်စွာ ကောက်ယူသုံးဆောင်တော်မူရသည်ဟု အိပ်မက်မြင်တော်မူလေသတည်း။

(ကျမ်းကိုး၊ ဤ၌ အကျဉ်းမျှသာဆိုသည်၊ အကျယ်ကို အလိုရှိလျှင် ထိုစဉ်အခါ မျက်မြင်တွေ့ကြုံတော်မူဖူးသော အဂ်ပူဆရာတော်ဘုရားကြီး ရေးသားတော်မူအပ်သော 'သစ်နက်ရေမော်ကွန်း'၌ ရှုတော်မူကြပါ။)

၁၈၈၂ သစ်နက်ရေကို ရသောအခါမှ စံတော်မူရာ လက်ပံလှကျောင်းကို 'အဇိနာရာမကျောင်းတိုက်'ဟု မှည့်တော်မူသည်၊ ယခင်က အမည်ထူးမရှိ ။ သစ်နက်ရေကို အလှူခံရာ ကာလကား အေဒီ ၁၈၈၂ ခု၊ မတ်လ ၂၀ ရက်၊ (၁၂၄၄ ခု နှောင်းတန်ခူးလဆန်း ၂ ရက်)သောကြာနေ့တည်း။

မှတ်ချက်၊ နှောင်းတန်ခူးလဆန်း ၂ ရက်မှာ သောကြာနေ့မဟုတ်၊ တနင်္လာနေ့သာ ဖြစ်ပါသည်။ ပညာ့အလင်းပြ နှစ်တစ်ရာ ပြက္ခဒိန် ၁၉၆၆ ခု၊ ပုံနှိပ် ပညာ့အလင်းပြ ပုံနှိပ်တိုက်၊ စာမျက်နှာ ၁၁၀ ကို ကြည့်ပါ)

၁၈၈၂ အေဒီ ၁၈၈၂ ခု ၊ (၁၂၄၄ ခု နှောင်းတန်ခူးလဆန်း ၂ ရက်) သောကြာနေ့၌ ဇနီးမောင်နှံနှစ်ဦးတို့သည် သီလရှင်တစ်ယောက်နှင့်တကွ ရှေ့တော်မှောက်သို့ လာရောက်ကြ၍ 'ဤသစ်နက်သွေးနှင့် သစ်နက်ရိုးတို့ကား ဘေးရန်ကို ပယ်ဖျောက်နိုင်ကုန်၏' ဟု လျှောက်ထားကြပြီးလျှင် လှူဒါန်းကြသောကြောင့် ဆရာတော်ဘုရားကြီးသည် 'သစ်နက်ရိုးနှင့်သစ်နက်သွေး' တို့ကိုလည်း အလှူခံတော်မူရလေသည်။

ထိုသစ်နက်ရိုးကား အလွန်မွှေးကြိုင် သင်းပျံ့သောရနံ့ရှိသည်။ ရေအိုးတွင်း၌ ခေတ္တစိမ်ထားလျှင် အိုးတွင်းရေသည် ကတိုးရနံ့ကဲ့သို့မွှေးသည်၊ သုံးအိုးလေးအိုးခန့် စိမ်ပြီးသည်နောက် မမွှေးတော့ချေ၊ ခေတ္တဆယ်ယူချထား၍ သွေ့ခြောက်သောအခါ တစ်ဖန် စိမ်ပြန်လျှင် သုံးအိုးလေးအိုးမွှေးပြန်သည်။ ဤနည်းအတိုင်း အိုး၌စိမ်လျှင် ဘယ်နှရက် ဘယ်နှလ ဘယ်နှအိုးပင်စိမ်သော်လည်း ရနံ့မပြယ် အိုးတိုင်းပင်မွှေးလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၄-၄၂၅ )

ဤအကြောင်းကို ကိုယ်တိုင် တွေ့ကြုံကြရသော ရန်ကုန်မြို့ ကြည့်မြင်တိုင် ကျွန်းတောကုန်းကျောင်းတိုက်၊ လင်းလွန်းပင်ကျောင်းတိုက်၊ ဇေယျဝတီကျောင်းတိုက်၊ ဝေဠုဝန်ကျောင်းတိုက်များ၌ တိုက်ကျောင်းကြီးလေးကျောင်း ဆောက်လုပ်လှူဒါန်းကြသော တိုက်ကျောင်းကြီးလေးကျောင်း ဒါယကာ



ဆိစက်ပိုင် ဦးညွန့် ဒေါ်ဂုဏ်တို့ ပြောကြားသောကြောင့်ကြားသိရသည်။ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ကြည့်မြင်တိုင်သို့ရောက်တိုင်း ထိုဒါယကာကြီး ဒါယိကာမကြီးတို့သည် အမြဲဆည်းကပ် လုပ်ကျွေးကြသောကြောင့် 'သစ်နက်ရိုး'ကို ကိုယ်တိုင်တွေ့မြင်လိုက်ကြရသည်ဟုဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၅ )

ဆရာတော်ဘုရားကြီးသည် သီဟိုဠ်ကျွန်းသို့ ကြွတော်မူခြင်းအကြောင်းကို အောက်ပါအတိုင်း သိရပါသည်။

၁၈၈၈ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် တပည့်သံဃာ နှစ်ကျိပ်ကိုးပါး ဒါယကာ နှစ်ကျိပ်လေးယောက်တို့နှင့်တကွ အေဒီ ၁၈၈၈ ခု၊ ဇန်နဝါရီ ၁၄ ရက်၊ (၁၂၄၉ ခု တပို့တွဲလဆန်း ၂ ရက်) စနေနေ့ သီဟိုဠ်ကျွန်းသို့ ကြွတော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၅ )

ထိုစဉ်အခါ ယခုကာလ၌ကဲ့သို့ အဖြောင့်သွား သင်္ဘောအဆင်မသင့်၊ ကျွန်းပတ်မြို့လှည့် ကုန်တင်သင်္ဘောဖြင့် သွားရသောကြောင့် ၁၅ ရက်ကြာမှ ကိုလမ္ဗိုမြို့ ဆိပ်ကမ်းသို့ ရောက်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၅)

သီဟိုဠ်ကျွန်းသို့ရောက်လျှင် အင်္ဂလိပ်လူမျိုး အော်လကောက်ဆရာကြီး၏ တပည့် အင်္ဂလိပ်လူမျိုး ဗုဒ္ဓဘာသာကျောင်းဆရာတစ်ဦးက အိမ်သို့ပင့်ဆောင်၍ ဆွမ်းဘောဇဉ်လုပ်ကျွေးပြီးမှ ကိုလမ္ဗိုမြို့ အမရပူရနိကာယ ဂဏာဓိပတိ သီရိသုဘူတိမထေရ် သီတင်းသုံးရာ ဇေယသေခရကျောင်းတိုက်သို့ ပို့ဆောင်သဖြင့် ထိုကျောင်းတိုက်၌ပင် တည်းခိုစံပယ်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၅ )

ခွင့်ပြုအပ်သောရက်နေ့ အချိန်ကျရောက်လျှင် စွယ်တော်တိုက်သို့ ရဟန်းပရိသတ်နှင့်တကွ ဝင်ရောက်တော်မူသည်။

စွယ်တော်ထိန်းအမတ်ကြီးနှင့် နာယကဆရာတော်ကြီးများက စွယ်တော်ကြုတ်ကို ထုတ်ယူကြ၍ အပြင်ကြုတ်ကို ဖွင့်ပြီးလျှင် အတွင်းကြုတ်ငယ်ကို ဖွင့်ကြဆဲအခါ ဆရာတော်ဘုရားကြီးသည် လက်ဝဲအောက်ဓာတ် စွယ်တော်မြတ်ကို လက်တော်ဖြင့် ယူတော်မူပြီးလျှင် ဦးခေါင်းအပြင်၌လည်း ရှိခိုးပူဇော်တော်မူသည်၊ လက်ဖြင့်ကိုင်ယူသည်ကို မည်သူမျှမတားမြစ်နိုင်၊ ငေးမှိုင်မိန်းမောမေ့မြောသတိ မှိုင်းမိသည့်အလား အံ့အားသင့်၍နေကြကုန်သည်။

ထိုအခါ အာကာသပြင် မိုးကောင်းကင်၌ နတ်ရှင်ပဠုန် ကမြူးခုန်၍ မှုန်မှုန်ရီရီဖြစ်ခြင်း။ ကောင်းကင်အလုံး ပိုးစုန်းကြူးပျံသန်းသကဲ့သို့ စွယ်တော်ဓာတ်မြတ်မှ မြူးလျှင် ပြောင်ပြောင်ခြည်ရောင်သည်လည်း အဆောင်တော်ကို ဖောက်ထွင်း၍ ကောင်းကင်အပြင်၌ မြူးရှင်ပျံသန်းခြင်း။ စသော အံ့ဖွယ်သရဲ ထူးကဲစွာဖြစ်သည်ကို သီဟိုဠ်ကျွန်းသား၊ ဒါယကာများတို့ မျက်ဝါးထင်ထင် တွေ့မြင်ကြရလေလျှင် မိမိတို့ ဘာသာအားဖြင့် 'ဆားဆား' ဟူသောအသံဖြင့် ကျုံကျုံမစဲ အံ့အဲ သာဓု အနုမောဒနာ ပြုကြကုန်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၆)



သီဟိုဠ်ဆရာတော်ဘုရားကြီးတို့ကလည်း ‘ပုညဝါ မဟာထေရော၊ ပုညဝါမဟာထေရော - ဤမထေရ်မြတ်ကြီးသည် ဘုန်းရှိပေစွတကား။ ဤမထေရ်မြတ်ကြီးသည် ဘုန်းရှိပေစွတကား’ ဟု အံ့သြတော်မူကြ၍ စွယ်တော်ဓာတ်မြတ်ကိုကိုင်ယူလျက် ထိပ်ထက်တင်ကာ ပူဇော်ရသောသူသည် ရှေးကမဖြစ်စဖူး၊ ဤမထေရ်မြတ်ကြီးသာ ထိပ်ထက်တင်ကာ ပူဇော်ရပေသည်။

> ဆရာတော်ဘုရားကြီး စွယ်တော်ဓာတ်မြတ်ကို ရှိခိုးပူဇော်သောအခါ ရောင်ခြည်တော်လွှတ်ကြောင်းကား သီဟိုဠ်တစ်ကျွန်းလုံး ကျော်ကြားလေသတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၇ )

မာတရိမြို့သို့ ရထားဖြင့် ကြွတော်မူသည်၊ ထိုမြို့မှ ထွက်တော်မူ၍ ခရီးလမ်း၌ရှိသော အာလောကလိုဏ် စသည်တို့ကို ဖူးမြော်လျက် အနုရာဓမြို့သို့ ငါးရက်တိုင်တိုင် ခြေကျင်ကြွတော်မူသည်။ ထိုအခါ ဆရာတော်ဘုရားကြီး သက်တော် ၇၀ ရှိလေပြီဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၇)

အနုရာဓမြို့သို့ ရောက်တော်မူလျှင် မဟာဝိဟာရမည်သော ကျောင်းတိုက်တွင် ကိန်းပိုက်တည်းခိုတော်မူ၍ ထူပါရာမစေတီ၊ မဟာစေတီ၊ ဟေမမာလီစေတီ၊ မရိစ္စစေတီ၊ အဘယစေတီ၊ ဇေတဝန်စေတီ၊ လောဟပါသာဒပြာသဒ်၊ ဒိက္ခဏသာခါမဟာဗောဓိပင် အစရှိကုန်သော ရှေးမင်းမြတ်တို့ ကောင်းမှုတော် ဟူသမျှတို့ကို ဖူးမြော်တော်မူသည်။

ထိုမှ တစ်ဖန် မိဿကတောင်ရှိ စေတီတော်ကို ဖူးမြင်တော်မူ၍ ခသ်န္တမြို့သို့ ပြန်ကြွတော်မူသည်။ သခ်န္တမြို့၌ စွယ်တော်ဓာတ်မြတ်ကို တစ်ဖန်ဖူးမြော်တော်မူပြီးလျှင် မကုဋတောင်ထိပ်ရှိ ပါဒစက်တော်ရာ စေတီကို ကြွရောက်ဖူးမြော်ပြီးမှ ကိုလမ္ဗိုမြို့သို့ ပြန်ကြွတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၈)

ထိုအခါ ထူးဆန်းစွာ ပေါ်လာသော ဒါယကာတစ်ဦးအကြောင်းကို အောက်ပါအတိုင်း ဖတ်ရှုရပါသည်။

> စေတီပါဒတောင်ပေါ်သို့ တက်ကြွတော်မူသောအခါ တောင်၏ ခါးပန်းစောင်းတန်းလှေကား၌ ဥပါသကာတစ်ယောက်သည် မည်သည့်နေရာမှ ထွက်ပေါ်လာသည်မသိ၊ ထွက်ပေါ်လာ၍ ဆရာတော်ဘုရားကြီးအား ရှိသေစွာရှိခိုးပြီးလျှင် လိမ္မော်သီးနှင့် သကြားများကို လှူဒါန်းဆက်ကပ်ပြီးနောက် လက်အုပ်ချီ၍ ထွက်ခွာသွားလေသည်။
>
> ထိုဥပါသကာ အနီးသို့ ရောက်လာလျှင်ပင် မွှေးပျံ့သင်းကြိုင် ရနံ့လှိုင်လေသည်။ ထိုလိမ္မော်သီးနှင့် သကြားတို့ကို ဆရာတော်ဘုရားကြီး ဘုဉ်းပေးသုံးတော်မူ၍ တောင်ပေါ်သို့တက်တော်မူသည်။ သက်တော် ၇၀ အရွယ် ကြီးရင့်လျက် ဤမျှမြင့်သော တောင်စခန်းကို မမောမပန်း ချောမောချမ်းသာစွာ တက်ကြွပြန်ဆင်းတော်မူနိုင်သည်။
>
> **ဤသည်ကို ထောက်ရှု၍ ယခင်ဥပါသကာကား လူသားမဟုတ်၊ ‘သုမနနတ်မင်း’ပင် တကားဟု နောက်တော်ပါ တပည့်ပေါင်းတို့ ထင်မှတ်ကြရကုန်သည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၈ )

သိမ်သမုတ်သောအခါ အံ့ဖွယ်ဖြစ်ရပ်ဆန်းများ ဖြစ်ပေါ်ခဲ့သည်ကိုလည်း အောက်ပါအတိုင်း ဖတ်ရှုရပါသည်။



အုဂ်ဖိုမြို့ ကန်ကုန်းကျောင်းတိုက်၌ သီမသမ္မုတိ ကံဆောင်တော်မူနေစဉ် တစ်ပင်တိုင် ထီးဝန်းကြီးပေါ်၌ ကျီးတစ်ကောင်နားသည်။ ကျီးကျောကုန်းပေါ်၌ စာသူငယ်တစ်ကောင်နားသည်။ မြေအပြင်သို့ မြွေကြီး တစ်ကောင်ဖြတ်သန်းသွားလေသည်။

(အံ့ဖွယ် ဖြစ်၏)

ဤအကြောင်းသုံးခုကို ဆရာတော်ဘုရားကြီး သိမြင်တော်မူလျှင် 'ဤသိမ်သည် သုံးကြိမ်သမုတ်ရမည့်သိမ်ပဲ' ဟု မိန့်တော်မူလေသည်။ မိန့်တော်မူသည့်အတိုင်း သုံးကြိမ်ပင် သမုတ်ရလေသည်။

ပထမတစ်ကြိမ် သမုတ်တော်မူရာ အလွန်ကျယ်ဝန်းကြီးမားလှသဖြင့် သဘော ကျတော်မမူ၊ တစ်ဖန်နုတ်ပြီးလျှင် ဒုတိယသမုတ်တော်မူပြန်သည်။ သိမ်တိုက်တည်မည် ပြုသောအခါ နေရာကျဉ်းသည် ငယ်သည်ထင်၍ သဘောကျတော်မမူ၊ တစ်ဖန် နုတ်ပြီးလျှင် တတိယသမုတ်တော်မူပြန်ရသည်။ ဤသို့လျှင် မိန့်တော်မူတိုင်း သုံးကြိမ် သုံးဖန်သမုတ်ရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၇၆)

ဤသို့ သိမြင်တော်မူခြင်းသည် အံ့ဖွယ်သရဲ ထူးကဲသော သိမြင်ခြင်းပင်ဖြစ်သည်ဟု ကျမ်းပြုဆရာက မှတ်ချက်ပြုခဲ့ပါသည်။

စံရွှေးမြို့၌ သီမသမ္မုတိကံကို ရွက်ဆောင်တော်မူသောအခါ သိမ်မဏ္ဍပ်အနီးမြေအပြင်၌ နွေခေါင်ခေါင်အခါဖြစ်လျက် ညဥ့်တွင်းချင်းကြာပေါက်သည်၊ ပုဇွန်ကျစ်စာလည်းတက်လာသည်။ ဤအကြောင်းအရာကို လျှောက်ထားကြလေလျှင် ကျေးဇူးရှင်ဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း မိန့်တော်မူကြောင်း ဖတ်ရှုရပြန်ပါသည်။

'ကြာ ဟူသည် ရေ၌သာ ပေါက်ရောက်မြဲဖြစ်လျက် ကုန်းမြေပေါ်၌ ပေါက်ရောက်သည်မှာ ဤသိမ်သည် မြစ်ရေတိုက်စား၍ ပျက်ပြားမည့်အကြောင်း နိမိတ်ဖြစ်သည်။ ဤကြာပေါက်ရောက်ရာ သိမ်တိုင်အောင်မြင်ဖြစ်လိမ့်မည်' ဟု မိန့်တော်မူသည်။ "ပုဇွန်ကျစ်စာကား များသောအားဖြင့် လယ်၌သာပေါက်တတ်မြဲဖြစ်သည်။ အခါမဟုတ် မဏ္ဍပ်အနီး ပေါ်တက်လာသည်မှာ ပုဇွန်စာ အလေးချိန်နှင့်အမျှ စပါးဈေးဖြစ်လိမ့်မည်' ဟု မိန့်တော်မူ၍ 'အချိန်မည်မျှရှိသနည်း' မေးတော်မူရာ ချိန်တွယ်စေ၍ '၇ဝ သား ရှိပါကြောင်း'ဖြင့် လျှောက်ထားလျှင် 'ယခုနှစ် စပါးဈေး ၇ဝ ဖြစ်လိမ့်မည်' ဟု မိန့်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၇၇ )

မိန့်တော်မူသည့်အတိုင်း သိမ်သည်လည်း မြစ်ရေ တိုက်စား၍ ပျက်ပြားလေသည်။ ထိုနှစ်၌လည်း စပါးဈေး ၇ဝ ဖြစ်လေသည်။ [ ထိုစဉ်အခါ၌ စပါးဈေး ၄ဝ, ၅ဝ, မျှသာဖြစ်မြဲတည်း။ ] ဤသို့ သိမြင်တော်မူခြင်းသည် အံ့ဖွယ်သရဲထူးကဲသော သိမြင်ခြင်းပင်ဖြစ်သည်ဟု ကျမ်းပြုဆရာက မှတ်ချက်ပြုခဲ့ပါသည်။

ဓနုဖြူ သာပေါင်းရပ်၌ ဧရာဝတီမြစ်ကြောဝယ် ပေါလောမျော၍ လာသော မိန်းမတစ်ယောက်ကို ဆယ်ယူရရှိ၍ ဝိုင်းအုံကြည့်ရှုကြရာ အသက်မသေ ပဋိသန္ဓေအရင့်အမာနှင့် ကုဋ္ဌနူနာ စွဲကပ်လျက်ရှိသည်ကို တွေ့မြင်ကြကုန်၍ ထိုမိန်းမအကြောင်းကို မေးမြန်းစုံစမ်းကြရာ ဟင်္သာတမြို့ ဆကာရပ်သူဖြစ်ကြောင်း စိတ်ညစ်ညူးလာ၍ သေလိုသည့်အတွက် ညဥ့်အခါ တိတ်တဆိတ် ရေထဲသို့ခုန်ဆင်းရာ



ရေကူးမတတ်ရှာသော်လည်း ကံကြမ္မာအလျောက် မနစ်မမြုပ်ဘဲ ပေါလော ပေါ်၍ မျောလာကြောင်းကို သိရသဖြင့် များစွာအံ့သြကြ၍ ထိုမိန်းမကို 'မရေပေါ်' ဟု အမည်ပေးပြီးလျှင် မိဘရှိရာ ဟသ်ာတမြို့သို့ ပို့ကြလေသည်။

နောက်များမကြာ ထိုအံ့သြစကား ပြောကြားခြင်းမစဲ မငြိမ်သေးမီအတွင်း ကျေးဇူးရှင် ဆရာတော် ဘုရားကြီးသည် ဓနုဖြူမြို့သို့ ကြွရောက်တော်မူခိုက်နှင့် ကြုံ၍ ထိုအခြင်း အရာကို ကြားသိတော်မူလျှင် 'ဤအရပ် ဤနေရာ၌ နောင်အခါ မြတ်စွာဘုရားသာ သနာတော်သည် အဟောဝထာ ပြောပလောက်စရာ လွန်စွာစည်ကားရန်အကြောင်း ကောင်းသောနိမိတ်သြဘာကြီးတစ်ခု ဖြစ်လေသည်။ ဤဒေသ၌ ဗုဒ္ဓမြတ်စွာ သာသနာ သည် ကောင်းစွာစည်ပင် သန့်ရှင်းလိမ့်မည်ဟု မိန့်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၇၇)

ဆီးဖြူကုန်းနှင့် သရက်ကုန်းရွာအကြား ဘိုးမှိုင်းမည်သော ကျောင်းဒါယကာဆောက်လုပ်အပ် သော တဲကျောင်း၌ ဆရာတော်ဘုရားကြီး ခေတ္တသီတင်းသုံးတော်မူစဉ် တိုက်တာ၌ ကျန်ရစ်ကြသော တပည့်သံဃာများ သွားရောက်ကြိုဆို ဖူးမြော်ကြသည်။ ထိုအခါ မန္တလေးမြို့တော်မှ ပြန်လာကြသော တပည့်များကို တွေ့မြင်တော်မူလျှင် ပဋိသန္ထာရ စကား ပြောကြားတော်မူပြီးနောက် အောက်ပါအတိုင်း မိန့်တော်မူကြောင်း ဖတ်ရှုရပြန်ပါသည်။

'မင်းတို့မန္တလေးမှာ ယခု သီပေါမင်းကလေးသည် အဘယ်ကို အားထုတ်၍ အဘယ်သို့ ဖြစ်နေသနည်း' ဟု မိန့်တော်မူသည်။

ထိုအခါ တပည့်များက 'မန္တလေးမြို့တော်မှာ ထီရုံတည်ပြီးလျှင် တစ်လက်မှတ် ကို ငွေ ၅ ထည့်ဝင်စေ၍ လက်မှတ်ပေါင်း တစ်သောင်းနှစ်ထောင် ငွေခြောက်သောင်း ပြည့်သောအခါ ငွေတစ်သောင်းခန့်ဖယ်၍ ကျန်ငါးသောင်းတို့ကို ထီဖွင့်ပါသည်။ ယခုအခါ မြို့နေသူအပေါင်းတို့သည် အရောင်းအဝယ် အလုပ်အကိုင်စွန့်ထား၍ များစွာထီကစား ကြပါသည်'ဟု လျှောက်ကြလေသည်။

ထိုအခါ ဆရာတော်ဘုရားကြီး မိန့်တော်မူသည်ကား သူပြုလုပ်အပ်သော ထီသည်ပင် သူ့ကို ပျက်စီးစေလတ္တံ့သော ပုဗ္ဗနိမိတ်ဖြစ်တော့သည်။

ထီ ဟူသော အက္ခရာသည် အဘိဓမ္မာနည်းအားဖြင့် ထီ - နောင် - ဘင် - သာ ဖြစ်သောကြောင့် ငါနိမိတ်ဖတ်ရလျှင် ၇ နှစ် ၇ လ ၇ ရက် ထက် နန်းသက် မလွန်နိုင်၊ ဤအတွင်းတွင် ပျက်စီးလတ္တံ့။

ထီ ဟူ သော အက္ခရာသည် ပုဒ်အနက်အားဖြင့် မီ - ဟူသော နိပါတ်ပုဒ်၏ ကာရိယဖြစ်နိုင်၍ စက်ဆုပ်ရွံ့ရှာဖွယ်အနက် ရှိသောကြောင့် ပျက်စီးသောအခါလည်း သူတစ်ပါးပျက်သည်နှင့်မတူ၊ မီ - အနက်အရ စက်ဆုပ်ရွံ့ရှာဖွယ်ပင် ပျက်စီးလတ္တံ့.' ဟု မိန့်တော်မူပြီးမှ 'ရတနာပူရ အင်းဝပြည်ကြီး၌ မိုးညှင်းမင်းတရားကြီးနတ်ရွာစံ တော်မူ၍ သားတော်မင်းရဲကျော်စွာ နန်းတက်တော်မူသောအခါ ဘိသိက်မင်္ဂလာ ဆင်ယင်မည့် သမားဖြူ သမားညိုတို့ကို ဟယ်တရိတရင်း ဟူးရားသမားတို့ အခါ တန်ပြီလော'ဟု မေးတော်မူသည်။

ထိုစကားကို ပညာရှိတို့ ကြားလျှင် ဤမင်းကား သုံးနှစ်သာ မင်းပြုရမည်ဟု နိမိတ်စကား ဖတ်ကြားကြကုန်သည်။ ဖတ်သည့်အတိုင်း သုံးနှစ်သာ မင်းပြုရသည်။



'မင်းတို့မင်းကလေးလည်း ထိ-ဟူသော နိမိတ်အရ ၇ နှစ် ၇ လ ၇ ရက်က မလွန်ပြီ၊ စက်ဆုပ်ရွံ့ရှာဖွယ် အကယ်ပင်ပျက်စီးရလတ္တံ့'ဟု မိန့်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၇၈-၄၇၉ )

မိန့်တော်မူသည့်အတိုင်း ၁၂၄၇ ခု တန်ဆောင်မုန်းလဆုတ် ၈ ရက်နေ့ နန်းစည်းစိမ်မှ လျှောကျလေသည်။ နန်းစည်းစိမ် ၇ နှစ် ၁ လ ၁၇ ရက်သာရှိသည်။ လျှောကျသောအခါလည်း တိုင်းပြည်အလုံး ဗုဒ္ဓဘာသာ သမ္မာဒိဋ္ဌိ မင်းလက်သို့မရောက်၊ နိယတ မိစ္ဆာဒိဋ္ဌိမင်းလက်သို့ ကျရောက်လေသဖြင့် စက်ဆုပ်ရွံ့ရှာဖွယ် ပျက်စီးခြင်းပင် ဖြစ်လေသတည်း။ ဤသို့ သိမြင်ခြင်းသည် အံ့ဖွယ်သရဲ ထူးကဲသော သိမြင်ခြင်းပင် ဖြစ်လေသည်ဟု ကျမ်းပြုဆရာက မှတ်တမ်းတင်ခဲ့ပါသည်။

ပုသိမ်မြို့ မိဂဒါရုံကျောင်းတိုက်၌ ဆရာတော်ဘုရားကြီး သိမ်သမုတ်တော်မူသောအခါ မိဂဒါရုံဆရာတော်က ကျေးဇူးရှင်ဆရာတော်ဘုရားကြီး ရေးသားစီကုံးတော်မူအပ်သော သိမ်မော်ကွန်းဩဘာစာကို မိမိ၏တပည့်ဖြစ်သော အင်္ဂလိပ်ကျောင်းသားသူငယ် မောင်အောင်စံကို ဖတ်ရွတ်စေသည်။

ဩဘာစာ ဖတ်ရွတ်ပြီး၍ သိမ်သမုတ်ကိစ္စပြီးသောအခါ ဆရာတော်ဘုရားကြီးက ရူပနိကာယ် သဒ္ဒနိကာယ် ရွတ်ပုံဖတ်ပုံ သံနေသံထား အသံဩဇာကို မြင်ကြားသိရှိလိုက်သည်နှင့် မောင်အောင်စံကို အနီးအပါးသို့ ခေါ်တော်မူ၍ 'အောင်စံ မောင်မင်းဟာ မြန်မာလူမျိုးထဲက သူများထက် ရှေးဦး ထူးထူးခြားခြား ကြီးပွားမည့်သူတစ်ယောက်ပဲ' ဟု မိန့်တော်မူလိုက်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၈၀)

ဆရာတော်ဘုရားကြီး မိန့်တော်မူသည့်အတိုင်းပင် ထိုမောင်အောင်စံသည် မြန်မာလူမျိုးထဲတွင် သူတစ်ပါးထက် ရှေးဦးထူးထူးခြားခြား အရေးပိုင်အဖြစ်ဖြင့် ကြီးပွားလေသည်။

ထိုမောင်အောင်စံကား အခြားသူ မဟုတ်၊ ပုသိမ်မြို့ ပွဲစားကြီး ဦးရန်စိုက် ပွဲကတော် ဒေါ်သက်တို့၏သားဖြစ်၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်သမ္မတကြီးဟောင်း အဂ္ဂမဟာသီရိသုဓမ္မ ဦးဘဦး၏ ယောက္ခမ အရေးပိုင်ဦးအောင်စံပင် ဖြစ်သည်။ ကျေးဇူးရှင်ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသောအခါ ပူဇော်ကန်တော့ကြကုန်သော ကောင်းမှုရှင်စာရင်း၌ ရွှေသားနဂါးပတ် မအူပင်မြို့ အရေးပိုင်ဦးအောင်စံနှင့် မင်းကတော်မမရှင်တို့ ကောင်းမှုဟူသည် ဤမောင်အောင်စံပင်ဖြစ်သည်။

ထိုအရေးပိုင် ဦးအောင်စံ မင်းကတော် မမရှင်တို့၏ သမီးကြီး မမကြီး ခင်ပွန်းကား ဦးခက်။ ဝန်ထောက်အရေးပိုင်ဖြစ်သည်။ သမီးအလတ် ဒေါ်ငြိမ်းငြိမ်းခင်ပွန်းကား နိုင်ငံတော်သမ္မတကြီးဟောင်း အဂ္ဂမဟာသီရိသုဓမ္မ ဒေါက်တာဦးဘဦးဖြစ်သည်။ သမီးအငယ် ဒေါ်သိမ်းသိမ်း ခင်ပွန်းကား ဦးဘိုးသွင်။ ဝန်ထောက်ဖြစ်သည်။ သား မောင်အောင်။ ငယ်ရွယ်စဉ်က ကွယ်လွန်သည်။

ဤသို့လျှင် ဆရာတော်ဘုရားကြီး၏ အမိန့်တော်တံဆိပ် ဗျာဒိတ်အတိုင်း ဦးအောင်စံသည် ဦးဦးဖျားဖျား ကြီးပွားလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၈၀)

ဟင်္သာတခရိုင် ဇလွန်မြို့နယ် သရက်တစ်ပင်ရွာကျောင်း၌ မဟာသိမ်သမုတ်တော်မူ၏။ ထိုသိမ်သမုတ်ပွဲသည် ရဟန်းပရိသတ် လူပရိသတ် ဖြိုးထပ်များပြားအလွန်ကြီးကျယ်စည်ကား၏။ ဘိသိက်တော်ဆက် ဆရာပုဏ္ဏားတို့ပင် ပါဝင်ကုန်၏။ ဘိသိက်တော်ဆက်နေစဉ် ပုဏ္ဏားဆရာကြီးသည် မအောင့်အည်း



နိုင်သဖြင့် အဓောဂမလေဟုန်ကို အဟုန်ထန်ပြင်း ပရိသတ်ခပင်း ကြားလောက်အောင် ကျယ်လောင်သောအသံကို ဖြစ်စေလျက်လွှတ်မိ၏။ ပရိသတ်အများတို့ တဝါးဝါး တဝေါဝေါ ရယ်မောကြ၏။ ထိုခါ ဤပွဲကြီးကို ဦးစီးဦးကိုင်ပြု၍ ဆောင်ရွက်ပေသော အလှူဒါယကာ ပျဉ်းမကုန်း တိုက်သူကြီး ဦးဘိုးဆင်သည် အမျက်ထွက်၍ ဆရာပုဏ္ဏားမျက်နှာကို မိမိလက်ဖြင့် ပြင်းထန်စွာ ပုတ်ခတ်လိုက်၏။ ပရိသတ်တို့လည်း ရုတ်ရုတ်သဲသဲဖြစ်ကုန်၏။

၁၈၈၈ ဤသို့သော အကြောင်းကြောင့် ဆရာတော်ဘုရားကြီးက ဤကျောင်း၌ ကျောင်းနေဘုန်းကြီး မြဲလိမ့်မည်မဟုတ်' ဟု မိန့်ကြားတော်မူ၏။ သိမ်သမုတ်သော နှစ်မှာ အေဒီ ၁၈၈၈ ခု (၁၂၅၀ ပြည့်နှစ်)ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၈၁ )

ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် အုဂ်ဖိုရ်မြို့မှ သာရဝေါ ရွာကလေးသို့ ပြောင်းရွှေ့ကြွမည်ရှိရာ ထိုအခါသည်ကား တန်ခူးလဖြစ်၍ နေအလွန် ပူပြင်းလှသောကြောင့် မြို့အုပ် ဦးဘိုးရှင်းက ယခု ပြောင်းကြွမည်မှာ နေပူသောအခါ ဖြစ်၍ အရုဏ်တက်အချိန်လောက်က ကြွတော်မူပြီးလျှင် လမ်းတစ်ဝက်ရောက်မှ နံနက်ဆွမ်းဘုဉ်းပေးရသော် နေပူမမိဘဲ ရွာကလေးသို့ ရောက်ပါလိမ့်မည်။ မိုးမလင်းမီ အရုဏ်တက်စကြွမှ သင့်လျော်မည့်အကြောင်း လျှောက်ထားရာ ဆရာတော်ကြီးက အောက်ပါအတိုင်း မိန့်တော်မူကြောင်းသိရပါသည်။

'နက်ဖြန်နံနက် နေမပူပါဘူး နံနက်ဆွမ်းဘုဉ်းပေးပြီးမှကြွမယ်' ဟု မိန့်တော်မူလေသည်။ နောက်တစ်နေ့နံနက် နေထွက်စချိန်မှာ နေရောင်သည် စင်ကြယ်စွာ ထွန်းလင်းနေသောကြောင့် ဦးဘိုးရှင်းက ဆရာတော်ဘုရားကြီး၏စကား မှားယွင်းလေပြီ၊ နေမပူဘူးဆိုရင် ယခု ပူနေသည်ဟု အောက်မေ့လေသည်။

နံနက်ဆွမ်းဘုဉ်းပေးပြီး၍ ကြွသွားမည်ဟု ထမ်းစင်ပေါ်သို့ ဆရာတော်ဘုရားကြီးတက်တော် မူသောအခါ ၇ နာရီအချိန်ခန့်ရှိလေပြီ၊ ထမ်းစင်ပေါ်သို့ တက်မိချင်း ဆီးနှင်းများစွာ ကျဝေပြီးလျှင် နေရောင်ပိတ်ကာလျက် ဝါးတစ်ရိုက်ခန့် ကွာဝေးသောအရပ်ကိုမျှ မမြင်နိုင်အောင်ရှိနေရာ ၉ နာရီခွဲ ဆယ်နာရီအချိန်ကျမှ နှင်းကွဲလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၈၅)

ဤအကြောင်းကို မြို့အုပ် ဦးဘိုးရှင်းက အလွန်အံ့ဩခြင်းဖြစ်၍ ငါတို့ ဆရာတော်ကား အဘိညာဉ်ရသော ပုဂ္ဂိုလ်ဟု စွဲလမ်းထားလေသည်ဟု မှတ်တမ်းတွင် ဖတ်ရှုရပါသည်။ ယင်းကျမ်း စာ ၄၈၅ ကို ကြည့်ပါ။

ဦးဘိုးရှင်းသည် အုဂ်ဖိုရ်မြို့ တရားမမြို့အုပ် လုပ်နေစဉ် မိမိနေအိမ် နောက်ဘေး၌ အိမ်သာသစ်တစ်ခု ဆောက်လုပ်လေသည်။ ထိုအိမ်သာသစ် ပြီးသည့်အခါ တနင်္ဂနွေနံနက်၌ ကျေးတောသား ခရီးသွားတစ်ယောက်သည် ထိုအိမ်သာသစ်ကို တက်ပြီးလျှင် အခင်းကြီးသွားလေသည်။ ထိုအကြောင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း အံ့ဩဖွယ်ရာ ဖတ်ရှုရပါသည်။

အိမ်သာမှ ဆင်းလာသောအခါ မြို့အုပ်ကတော် ဒေါ်မြရိပ်လည်း အိမ်နောက် ဘေးသို့ ထွက်လာသည့်အခိုက်နှင့်ကြုံ၍ ထိုလူနှင့်တွေ့လျှင် 'အိမ်သူအိမ်သားတွေ မသွားရသေးသောအိမ်သာကို အဘယ်ကြောင့်တက်၍သွားရသနည်း'ဟု ဆူပူပြောဆိုသံကို အိမ်ပေါ်မှ မြို့အုပ် ဦးဘိုးရှင်းကြားလေသော် 'ဘာလဲ ဘာဖြစ်တာလဲ'ဟု မေး၍ ဆင်းလာသောအခါ မြို့အုပ်ကတော်က 'ကြည့်စမ်းပါဦး၊ အိမ်သားမျှ မသွားရသေးသော



အိမ်သာသစ်ကို ဤတောသားကသွားသည်'ဟု ပြန်ကြားပြောဆိုရာ မြို့အုပ်က 'မင်းဘာကြောင့်တက်ရသလဲဟု' မေးလျှင် 'ဘုရားကျွန်တော်မျိုး မအောင့်အည်းနိုင်၍ တက်မိပါသည်'ဟု ပြန်ပြောသောအခါ 'နင့်ချေးကို နင်ကျုံးပစ်ရမည်' ဟု ကြိမ်းမောင်း ပြောဆိုသဖြင့် ထိုလူလည်း မြို့အုပ်ကိုကြောက်ရွံ့သောကြောင့် ကျုံးပစ်ရရှာလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၈၅ )

အထက်ပါ အဖြစ်အပျက် ဖြစ်ပွားပြီးနောက် နောက်ထပ် ဖြစ်ရပ်တစ်ခုကို အောက်ပါအတိုင်း ကြုံတွေ့ရပြန်လေသည်။

မြို့အုပ်ကလည်း အားလပ်သောနေ့ဖြစ်၍ ဆရာတော်ဘုရားကြီး၏ ခြေတော်ရင်းသို့ သွားရောက်ခစားရာ 'မည်သူလဲ' ဟု မေးတော်မူ၍ 'တပည့်တော် ဘိုးရှင်းပါဘုရား' ဟု လျှောက်ထားသည်။

၁၅ မိနစ်ခန့်ကြာမှ ဆရာတော်ဘုရားကြီးက 'ဟဲ့ ဘိုးရှင်း . . မောင်မင်းတို့ လင်မယားနှစ်ဦးကို ကောင်းစေချင်၍ ငါတစ်ခုပြောမည်၊ ငါပြောသည့်အတိုင်း စိတ်မညစ်ညူးဘဲ စိတ်စေတနာ ဖြူစင်စွာဖြင့်ပြုရမည်၊ မနက်ဖြန်မှစ၍ ၇ ရက်ပတ်လုံး မင်းတို့အိမ်၏ ၁၀တ်ဝန်းကျင် အရှေ့အနောက် ၇ အိမ်တိုင်တိုင် လမ်း၌ရှိသော အညစ်အကြေးပှူသမျှကို နံနက်တိုင်း မောင်မင်းတို့ လင်မယားကိုယ်တိုင် သိမ်းယူ သုတ်သင်ကြရမည်၊ ငါပြောသောကြောင့်သာ ဤသို့ သုတ်သင်ရသည်ဟု မအောက်မေ့ကြနှင့်၊ ကုသိုလ်ရအောင်နှလုံးထား၍ သုတ်သင်ကြရမည်။ သို့မှသာ မောင်မင်းတို့၌ ရှိသောအပြစ်ကင်းမည်'ဟု မိန့်တော်မူသောကြောင့် ဇနီးမောင်နှံနှစ်ယောက် ၇ ရက်လုံးလုံး ပြုလုပ်ဆောင်ရွက်ရသည်။

'ချေးကျုံး မြို့အုပ်လင်မယား'ဟု သူတစ်ပါး ပြောင်လှောင်အပ်သည်ကို ခံရသည်။ အဘယ်ကြောင့် ဆရာတော်ဘုရားကြီးသည် ထိုကဲ့သို့ ခိုင်းစေသနည်းဟု ဆင်ခြင်ရာ ကျေးတောသားအား ပြစ်မှားမိခဲ့သည်ကို သတိရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၈၆ )

ဆရာတော်ဘုရားကြီးထံ ထိုအကြောင်းကို အခြားသူတစ်ဦးတစ်ယောက် ရှေးဦးစွာ လာရောက် လျှောက်ထား၍ သိတော်မူသည်ဆိုရမှာလည်း လျှောက်ထားဖို့ရန် အချိန်မရှိလေ၊ ကျေးတောသားကို ကြိမ်းမောင်းပြီးနောက် ချက်ချင်းပင် ဆရာတော်ဘုရားကြီး၏ခြေတော်ရင်းသို့ မြို့အုပ် သွားလေသည်။ မြို့အုပ်မင်း ဦးဘိုးရှင်းအား ငါ၏အကြောင်းကို ဆရာတော်ဘုရားကြီးသည် အဘိညာဉ်ဖြင့် သိတော်မူသည်ဟု စွဲလမ်းလေသည်ဟု မှတ်တမ်းတွင်ဖတ်ရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၈၆ )

သာယာဝတီမြို့နယ် သုံးဆယ်မြို့ ထူပါရုံဆရာတော်နှင့် ကျောင်းဒါယကာ သမာဓိမြို့ဝန် ဦးလူငယ်အမှူးရှိ ဒါယကာအပေါင်းတို့က သီမသမ္မုတိကံဆောင် ပင့်လျှောက်ကြသောကြောင့်ပင် ကြွရောက်ချီးမြှင့်တော်မူ၏။

သိမ်သမုတ် ကိစ္စပြီးသဖြင့် 'ဘိုးခေါင်လမ်းမှဖြတ်၍ ခနေဖြူသို့ ကူးပြီးလျှင် ဟသ်ာတသို့ လှည့်၍ပြန်မည်' ဟု အမိန့်တော်ရှိရာ အချို့ဆရာတော်တို့က ဘိုးခေါင်လမ်း၌ ဝေဒနာဖြစ်နေပါသည်။ ဤခရီးဖြင့်ကြွရန် မသင့်လျော်ကြောင်း စိုးရိမ်တကြီး လျှောက် ထားကြကုန်၏။



ဘာစကားကိုမျှမိန့်ကြားတော်မမူဘဲ သီတင်းသုံးနေတော်မူပြီးလျှင် ညချမ်းသို့ ရောက်သောအခါ တပည့် သံဃာတော်များကို ခေါ်တော်မူ၍ 'ဘိုးခေါင်လမ်းဖြင့်ပင် ဆရာသွားမည် ကြောက်ကုန်သောသူတို့ မလိုက်လိုလျှင် နေရစ်ကြပေတော့' ဟု မိန့်တော်မူ၍ အရုဏ်တက်ဆွမ်းဘုဉ်း ပေးတော်မူပြီးလျှင် ကြွတော်မူသည်။ တပည့် သံဃာတော်တို့လည်း နောက်တော်သို့လိုက်ပါကြကုန်သည်။

လမ်း၌ ပြောပဖွယ်ရာ ဝေဒနာ အထွေအထူးမရှိ၊ သန့်ရှင်းသာယာလျက် ရှိ၏။ နေ့ဆွမ်း ဘုဉ်းပေးချိန်အခါ လူသူမနီး ရွာလည်းမရှိ တစ်ခုသော စိမ့်တောသို့ ရောက်၍ နားနေကြသောအခါ ဇနီးခင်ပွန်းနှစ်ယောက် ဘယ်မှရောက်လာသည် မသိ၊ မုန့်ဟင်းခါးဆွမ်းတစ်အုပ် ဆရာတော်ဘုရားကြီးအား ကပ်လှူလာ၏။ (အံ့ဖွယ် ဖြစ်၏။)

ဆရာတော်ဘုရားကြီးသည် မိမိအဖို့ သုံးလုတ်စာမျှ အကပ်ခံ ဘုဉ်းပေးတော်မူ၍ ကျန်မုန့်များကို သံဃာတော်များအား ကပ်လှူစေတော်မူသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၄၈၈)

ဤသည်လည်း ထူးထူးကဲကဲ အံ့ဩစဖွယ်ပင် ဖြစ်သည်ဟု ဖတ်ရှုရပါသည်။

**ကျေးဇူးရှင် ဆရာတော်ဘုရားကြီးမှာထံပါး နီးရပ်ချဉ်းကပ်လျှောက်ထားလေ့ရှိသော နတ်သားတစ်ဦးရှိသည်။ ထိုနတ်သားသည် အကြောင်းအရာ အခင်းကိစ္စရှိလတ်က ဆရာတော်ဘုရားကြီးအား အကြောင်းအမျိုးမျိုး လျှောက်ထားလေ့ရှိသည်ဟု ထူးဆန်းစွာဖတ်ရှုရပါသည်။ (အံ့ဖွယ်ဖြစ်၏)**

၁၉၀၂ အေဒီ ၁၉၀၂ ခု (၁၂၆၄ ခုနှစ် တန်ခူးလ) အတွင်း သုံးဆယ် စံရွှေဘိုးခေါင် ရွှေငြိမ်းအေး ဇလွန်မှဖြတ်၍ နဲ့ကြီးသို့ ကြွတော်မူသောအခါ ဆရာလည်း နောက်တော်မှလိုက်ပါရသည်။

ခရီးထွက်အံ့ဆဲဆဲ၌ ဆရာတော် ဘုရားကြီးက 'မောင်သာဂရ ဆရာအား လျှောက်ထားလေ့ရှိသော သူကတော့ ယခု ကြွသွားရာဝယ် လမ်းခရီးမှာ အနာရောဂါရ လိမ့်မည်ဟု လျှောက်ထားတာပဲကွဲ့'ဟု မိန့်တော်မူသည်။

'သုံးဆယ်မှ စံရွှေဘိုးခေါင်ကိုဖြတ်၍ ဇလွန်သို့ ကြွတော်မူရာ ရွှေငြိမ်းအေး ဘုရားကို ဖူးမြော်လိုသည်' မိန့်တော်မူ၍ ရွှေငြိမ်းအေး၌ တစ်ညဉ့်ကျိန်းစက် ဘုရား ဖူးပြီး နောက်တစ်နေ့နံနက် ဆွမ်းဘုဉ်းပေးပြီးလျှင် ဇလွန်တစ်ဖက် နန်းတော်ကျွန်းသို့ ကြွတော်မူသည်။

ထိုရွာ၌ နေ့ဆွမ်း ဘုဉ်းပေးပြီးနောက် ဧရာဝတီမြစ်ကို လှေဖြင့် ကူးတော်မူရာ လှေပေါ်၌ပင် လူမှန်းသူမှန်းမသိ သတိကင်းအောင် အပြင်းအထန်အဖျားရောဂါ စွဲကပ်လေသည်။ ဇလွန်မြို့ ဦးဇနိန္ဒတိုက်ကျောင်းပေါ်သို့ရောက်၍ ညဉ့် ၉ နာရီတိုင်အောင် မလှုပ်မယှက် ပြင်းပြသောဝေဒနာကို ခံစားတော်မူရသည်။ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ဤဝေဒနာမှ ထတော်မမူနိုင်ပြီ၊ မကြာမြင့်မီ စံလွန်တော်မူလိမ့်မည် . . . ဟု ဆရာနှင့်တကွ တပည့်အားလုံး စိုးရိမ်မကင်းကြောင့်ကြ ပူဆွေးခြင်းဖြစ်ရသည်။

၉ နာရီ ကျော်သောအခါမှ ဆရာတော်ဘုရားကြီး သတိရတော်မူ၍



မေးမြန်းပြောဆို အထူးအမခိုင်းပြီးလျှင် ထိုင်တော်မူသည်။ ဆရာတို့ ထိုအခါကျမှ ဝမ်းမြောက်ဝမ်းသာ စိတ်သက်သာခွင့်ရကြသည်။

ဆရာတော်အား လျှောက်ထားလေ့ရှိသော သူဆိုသည်မှာ အခြားမဟုတ် နတ်သားဖြစ်သည်။ ထိုနတ်သားသည် ဆရာတော်ဘုရားကြီးအား အကြောင်းအရာ အမှုကိစ္စရှိလျှင် လျှောက်ထားလေ့ရှိသည်။ (အဲ့ဖွယ်ဖြစ်၏)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၉၀ )

ထိုနတ်သားလျှောက်ထားသည်အတိုင်းပင် အနာရောဂါရတော်မူသည်ဟု ဘုရားကြီးဆရာတော်မိန့်တော်မူသည်ဟု ဖတ်ရှုရပါသည်။ ယင်းကျမ်း စာ ၄၉၀ ကို ကြည့်ပါ။

အစ္ဆေရိယဂုဏ်တော်ခန်းဝယ် ဆန်းကြယ်စွာ ဆရာတော်ဘုရားကြီး သိမြင်တော်မူခြင်းသည် ထိုနတ်သား လျှောက်သောကြောင့် သိမြင်တော်မူသည်ဟု ငါတို့ အယူရှိကုန်သတည်းဟုလည်း မှာတမ်းရှိပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၉၀ )

ဤသို့ အမြွက်မျှပြအပ်သော ဂုဏ်ကျေးဇူးတော်အပေါင်းနှင့် ပြည့်စုံတော်မူသော ဆရာတော်ဘုရားကြီးသည် အုဂ်ဖိုရ်မြို့ ကန်ကုန်းကျောင်းတိုက်၌ သီတင်းသုံးစဉ် အောက်ပါအတိုင်း မှာတော်မူခဲ့ကြောင်းသိရပါသည်။

'ငါပျံလွန်က ငါ့အလောင်းကို ခုနစ်ရက်သာထားကြ၊ ငါငယ်စဉ်က နေဖူးသော ငါ့ဆရာ ဦးဇော်ဂျီ တိုက်ရာ၌ ဂူသွင်း၍ အထက်က စေတီတည်ကြလေဟု မိန့်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၀၅ )

ဆရာတော်ဘုရားကြီးသည်လည်း 'ဖွားသန့်စင်တော်မူရာ ရွာကလေးရွာ၌ပင် ဘဝတစ်သွန် စံလွန်တော်မူတော့အံ့'ဟူသော စကားမိန့်ကြားတော်မူပြီး၍ အုဂ်ဖိုရ်မြို့ ကန်ကုန်းကျောင်းတိုက်မှ ဒေသစာရီ ကြွချီတော်မူလျက် ရွာကလေးရွာ ဗဟုသုဒေဝ နိမ္မိတကျောင်းတိုက်၌ ကိန်းပိုက်ရွှင်ပြုံး သီတင်းသုံးတော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၀၆ )

၁၉၀၄ ထိုသို့ သီတင်းသုံးနေတော်မူသောအခါ သာရဝေါမြို့စား မဟာသမိန်ထော တည်ထားအပ်သော ဖိနပ်ပန်းတင်ခုံမျှသာပြီးစီး၍ ပျက်စီးယိုယွင်းနေသော စေတီတော်ရာ၌ စတုပစ္စယ ကပ္ပိယကာရက ပဝါရိတ တပည့်ဒါယကာဖြစ်သော ၁၂၄ ပေရှိ 'ဗဟုဒေဝနိမ္မိတ အမျိုးအကြီး ဦးစီးနာယကပြုစေ၍ ဖိနပ်တော် ၁၂၄ ပေရှိ ဗဟုဒေဝနိမ္မိတမည်သော စေတီတော်ကြီးတစ်ဆူကို အေဒီ ၁၉၀၄ ခု (၁၂၆၆ ခုနှစ်) အစပြု၍ တည်ထားစေတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၀၆ )

ပြုစုတော်မူသော ကျမ်းစဉ်စာပေများမှာ အောက်ပါအတိုင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

၁။ ကံ, ဒွါရ အဆုံးအဖြတ် မေတ္တာစာ ၂။ မိုင်းခိုင်းအတွင်းဝန် ဦးရန်သို့ပေး မေတ္တာစာ(၁) ၃။ မိုင်းခိုင်းအတွင်းဝန် ဦးရန်သို့ပေး မေတ္တာစာ (၂) ၄။ မိုင်းခိုင်းအတွင်းဝန် ဦးရန်သို့ပေး မေတ္တာစာ(၃)



၅။ စံရွှေးမြို့အုပ် ဦးဖန်သို့ပေး မေတ္တာစာ၊ ၆။ ဇီးကွက် မေတ္တာစာ၊ ၇။ ဦးဇော်ဂျီ မေတ္တာစာ၊ ၉။ ဦးထွန်းကျော်က အင်းခန်းဆရာတော်သို့ပေး မေတ္တာစာ၊ ၁၀။ မှန်စီဆရာတော်သို့ပေး မေတ္တာစာ၊ ၁၁။ ပရပ္ပဝါဒနိမဒ္ဒနကထာ မေတ္တာစာ၊ ၁၂။ ရွှေကျင် ဆရာတော်သို့ပေး မေတ္တာစာ၊ ၁၃။ အခွန်ဝန် ဦးကန်သို့ပေး မေတ္တာစာ၊ ၁၄။ ဘိုးရန်အောင် - ဒေါ်မင်းလှ သား - ရဟန်းသို့ပေး မေတ္တာ စာ၊ ၁၅။ သတိပေပုလ္လ မေတ္တာစာ၊ ၁၆။ သေမင်းတမန် - စာတမ်း၊ ၁၇။ နိယတာနိယတ မိစ္ဆာဒိဋ္ဌိ ကင်္ခါဘေဒ၊ ၁၈။ အဟံကာရ ယတနစာတမ်း၊ ၁၉။ သာသနဒါယာဒ ဝိနိစ္ဆယ၊ ၂၀။ ဒွါရသင်္ဂဟ ၂၁။ လက္ခဏစိတြတ္တ ယောဇနာ၊ ၂၂။ လက္ခဏ စိတြတ္တဋီကာ - ပါဠိ၊ ၂၃။ ပထပူရဏီ၊ ၂၄။ အတိစိတြဂမ္ဘိ ရတ္တခမ္မ ပရိတ်အမျိုးမျိုး ၂၅။ သတိပေပုလ္လသုတ္တန္တ ဒေသနာ၊ ၂၆။ ဝိဇယ ဝိသဇ္ဇနာ၊ ၂၇။ ဝိပဿနာ ဉာဏတန္တိ၊ ၂၈။ ဂုဏ်တော်ဖွင့် စသော ဘုရားရှိခိုး အမျိုးမျိုး၊ ၂၉။ စေတီဖျက်ထိုက် မဖျက်ထိုက်၊ ၃၀။ ဗုဒ္ဓသရိက္ခ စာတမ်း၊ ၃၁။ အမြိတေဒက စာတမ်း၊ ၃၂။ မဟာဝဇီရ ဉာဏနုန္နယ် ဝိသဇ္ဇနာ အလင်္ကာ ပိုဒ်စုံ ၃၃။ သိမ်မော်ကွန်း၊ ၃၄။ ရေစက်ချပိုဒ်စုံ ၃၅။ သံဝေဂ ပိုဒ်စုံ ရတုအမျိုးမျိုး။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၁၀-၅၁၃ )

ပုဂံရွှေနန်းရှင်က ရာဇာဓိ ရာဇဂုရု ဘွဲ့တံဆိပ်တော် ဆက်ကပ်လျှူဒါန်းသည်ကို ခံယူတော် မမူခဲ့ချေ။

(ကျမ်းကိုး၊ ရွှေညြ ဂန္ထဝင်ကျော် ရဟန်းတော်များ။ ၂၀၀၀ ပြည့်နှစ် ဇန်နဝါရီ ပထမအကြိမ်၊ ပညာရွှေတောင်စာအုပ်တိုက်၊ စာ ၁၃၅ )

**ထူးခြားချက်မှာ အုဂ်ဖိုရ်ဆရာတော်သည် ဘုရားဆုပန် ပုဂ္ဂိုလ်ထူးကြီးဖြစ်သည်။**

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၃၅)

ပရိယတ္တိဆိုင်ရာ ဆေးကျမ်း ဓာတ်ကျမ်း နက္ခတ္တကျမ်း ဗေဒင်ကျမ်းစသော လောကီကျမ်းများ ဗျာကရုဏ်းကျမ်းတို့ကို မည်သူနှင့်မျှ မတူအောင် တတ်မြောက်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၃၄)

အုဂ်ဖိုရ်ဆရာတော်ကြီးသည် သာရဝေါမှ ၂ မိုင်ဝေးသော ရွာကလေးရွာဇာတိဖြစ်သည်။ အဖ ဦးရွှေပန်း အမိ ဒေါ်လေးတို့ဖြစ်သည်။ မြန်မာနှစ် ၁၁၇၉ တပေါင်းလဆန်း ၅ ရက် တနင်္ဂနွေနေ့ တစ်ချက်တီးကျော်အချိန်တွင် ဖွားမြင်သည်။

ငါပျံလွန်တော်မူသောအခါ ငါ့ရုပ်အလောင်းကို (၇) ရက်သာထား၍ သင်္ဂြိုဟ်ကြရမည်။ သင်္ဂြိုဟ် သောအခါမှာလည်း ငါ့ရုပ်အလောင်းကို ဂူသွင်းပြီး အထက်မှစေတီတည်ကြလေဟု မှာကြားခဲ့ကြောင်း သိရပါသည်။

၁၉၀၄ ဆရာတော်သည် အေဒီ ၁၉၀၄ ခု ( ၁၂၆၆ ခုနှစ် ) အကူးတွင် ရွာကလေးကျောင်းသို့ ပြောင်း ရွှေ့သီတင်း သုံးတော်မူသည်။ အေဒီ ၁၉၀၆ ခု၊ မတ်လ ၂၀ ရက်၊ (၁၂၆၇-ခု၊ တပေါင်းလပြည့်ကျော် (၂) ရက်) တနင်္ဂနွေနေ့နံနက် (၉)နာရီအချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူလေသည်ဟု သိရပါသည်။

(မှတ်ချက်။ ၁၂၆၇ ခု တပေါင်းလပြည့်ကျော် ၂ ရက်သည် တနင်္ဂနွေနေ့ မဟုတ်ပါ။ စနေနေ့ဖြစ်ပါသည်။ ပညာအလင်းပြ အင်္ဂလိပ် မြန်မာ နှစ်တစ်ရာ ပြက္ခဒိန် ၁၂၂၅ မှ ၁၃၂၉ ခုနှစ်၊ ၁၉၆၆ ခု ပုံနှိပ် ပညာအလင်းပြ စာ ၂၅၄ ကို ကြည့်ပါ။)

စာတ်တော်များ တဖွားဖွားကျတော်မူသည့်

# ရဟန္တာ ဦးသာရှန်း

## ခေတ်ဒီ ၁၈၂၀ - ၁၉၂၀ (၁၁၈၂ - ၁၂၈၂)





အသက် ၁၀၀ ရှည်သော ရဟန္တာဦးသာရွှန်း၏ ဘွဲ့တော်မှာ ဦးကဝိန္ဒ ဖြစ်ကြောင်းသိရပါသည်။ ဘုန်းတော်ကြီး ရဟန္တာဦးသာရွှန်းအကြောင်းကို မဟာစရိယ ဦးဌေးလှိုင်သည် စာတွေ့ ငါတွေ့ မှတ်တမ်းတင်ခဲ့သဖြင့် ကြည်ညိုဖွယ်ရာဖတ်ရှုရပါသည်။

ဦးသာရွှန်း သီတင်းသုံးသောနေရာမှာ သီးပင်အိုင်ရွာအနီး သစ်ခေါင်းပလုတ်တုတ် တောရဖြစ်ကြောင်းသိရပါသည်။

ဇာတိမှာ ညောင်ကန်ရွာအနီး ကြက်ရိုးကုန်းရွာဖြစ်၏။ ငယ်စဉ်ကပင် တောရဆောက်တည်ရန် ဝါသနာအလေ့ ကြီးမားတော်မူ၏။ ပထမဆုံး သီးပင်အိုင်ရွာနှင့် ကုတ်ကိုစရွာအကြားရှိ သစ်ခေါင်းပလုပ်တုတ်တောရ၌ သီတင်းသုံးသည်။

(ကျမ်းကိုး၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ မဟာစရိယ ဦးဌေးလှိုင် စာ ၁၈၅)

## ပါတော်မူခေတ်နှင့် ကြုံရခြင်း

၁၈၈၅ အေဒီ ၁၈၈၅ ခု၊ (၁၂၄၇ ခုနှစ်) တွင် ဘုတလင် ရေဦးသွား လက်ပံတောရ၌ သီတင်းသုံးသည်။

ထိုအချိန်ကား မန္တလေး နေပြည်တော်၌ အင်္ဂလိပ်စစ်တပ်များ သိမ်းယူ၍ တိုင်းပြည်ဆူပူချောက်ချားခိုက်ဖြစ်၏။ ခိုးသားဓားပြသောင်းကျန်း၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၅ )

## ကုလားစစ်တပ်ဝိုင်းရံခြင်း

ဘုန်းတော်ကြီးများ တရားရှုမှတ်ရင်း စိတ်ဓာတ်များ ချောက်ချားနေ၏။ ကြောင့်ကြစိတ်များဝင်နေသည်။ ထိုအတွင်း ဆရာတော်သီတင်းသုံးသော အုတ်ဖိုတောင်အား ရန်သူရှိမည်အထင်ဖြင့် ကုလားစစ်တပ်များဝိုင်းရံလာကြ၏။ ဆရာတော်မှာ ပို၍ထိတ်လန့်နေရှာသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၅ )

နယ်ချဲ့ပါတော်မူခေတ်ဖြစ်သဖြင့် နယ်ချဲ့ဘေးဒဏ်ကို ရှောင်ရှား၍ ကျင့်ကြံရပုံကိုသိရှိရပါသည်။

## တိတ်တဆိတ်ထွက်ခွာခြင်း

ထို့ကြောင့် ငါးစပ်တင်းတိမ်ကြီးကို ခေါင်းပုံခြုံကာ လက်ပံတောရ ကျောင်းကလေးမှ တိတ်တဆိတ် ထွက်ခွာလာခဲ့ရသည်။ မောင်းထောင်ရွာ မြောက်ဘက် ခြောက်မိုင်ကွာ ဝက်ရဲတော၌ ရွှေ့ပြောင်း၍ သီတင်းသုံးတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၅ )

## ဝက်ရဲတော၌ သီတင်းသုံးခြင်း

ထိုခေတ် ဝက်ရဲတောကား သားရဲထူပြောလှ၏။ ဘုန်းတော်ကြီးသည် ထန်းလုံးခန့်ရှိ မြွေဆိုးကြီးများကို တွေ့ရသော်လည်း သားရဲနှင့်မြွေဆိုးတို့သည် ဘုန်းတော်ကြီး၏ မိတ်ဆွေများဖြစ်ကြ၏။



## တောတောင်များကိုလှည့်လည်ခြင်း

ထိုမှတစ်ဆင့် ငွေးပင်ကျင်းတော၊ ဆည်ကြီးတောနှင့် ရွှေစာရေးတောင်များသို့ လှည့်လည်သီတင်းသုံးတော်မူသည်။

**ထန်းရွက်သုံးလေးရွက်ကို သစ်ပင်ပေါ်တင်၍ သခ်မ်းကျောင်းအဖြစ် သီတင်းသုံးရာ လူသူအသွားအလာများပုံရလျှင် အခြားတစ်တောသို့ရွှေ့ပြောင်းလေ၏။**

ဆည်ကြီးတောရ၌နေစဉ် ကိုသာပြန့်ဆိုသူက အိုးအိမ်သားမယားစွန့်ကာ ကပ္ပိယအဖြစ်စောင့်ရှောက်လုပ်ကျွေးသည်။ ထိုအခါ ဘုန်းတော်ကြီးကား အသက် ၇၀ ကျော်လေပြီ။

(ကျမ်းကိုး၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ မွှာစရိယ ဦးဌေးလှိုင် စာ ၁၈၆ )

၁၈၉၁ ဘုန်းတော်ကြီးသည် အေဒီ ၁၈၉၁ (၁၂၅၃ ခု )၇၀ ကျော် အိုမင်းမစွမ်းရှိသောအခါ ဒကာများက ညောင်ကန်ရွာအနီးရှိ အုတ်အိုင်ရွာ မြောက်ကျောင်း၌ ပင့်ထားကြရ၏။ ထိုကျောင်းကား မန်ကျည်းပင်များ ဝိုင်းရံလျက်ရှိသော ကျောက်လှာကုန်းမြင့်ဖြစ်သည်။

(ထိုရွာကား ဗြိတိသျှဘားမားသူဌေးဦးညွန့်၏ ဇာတိရွာဖြစ်၏ဟုသိရပါသည်။)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၈ )

ရွာကျောင်း၌ နေရသော်လည်း ရဟန်းရှင်လူများနှင့်အတွေ့မခံ။ ကပ္ပိယနှင့်သာနေတော်မူ၏။ ဆွေမျိုးသားချင်းတော်စပ်သော ဒကာ ဒကာမများကိုပင် အတွေ့မခံ။ ကပ္ပိယမှတစ်ဆင့် နှစ်ကြိမ်သုံးကြိမ်လျှောက်ထားမှ ဖူးတွေ့ကြရသည်။

အချို့သားချင်းများ ငိုယို၍ပင် ဖူးခွင့်တောင်းကြရ၏။ ရသမျှ ဆွမ်းခဲဖွယ်ဘောဇဉ်များကိုလည်း အားလုံး ဘုရားတင်လှူပြီးမှ ဘုဉ်းပေးလေ့ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၉ )

၁၉၂၀ အေဒီ ၁၉၂၀ (၁၂၈၂ ခုနှစ်) နှစ်ဦးတွင် ကပ္ပိယကိုသာပြန့်သည် ရုတ်တရက် ကွယ်လွန်သွားရာ ဒကာကြီးဦးပွားပေါ်က ဆက်လက်တာဝန်ယူရ၏။

## ဘုန်းတော်ကြီး မျက်ရည်ကျခြင်း

ဘုန်းတော်ကြီးသည် ကိုသာပြန့် အသုဘကို ရထားဖြင့် သင်္ဂြိုဟ်တော်မူသည်။ တစ်နေ့သောအခါ ကပ္ပိယဦးပွားပေါ်သည် ဘုန်းတော်ကြီးအား ကြည့်လိုက်ရာ ဘုန်းတော်ကြီးမှာ တရားထိုင်ရင်း မျက်ရည်များတတွေတွေကျနေသည်ကို တွေ့မြင်ရသဖြင့် အကျိုးအကြောင်းလျှောက်ထားလျှင် ကောင်ကလေး သောပြန့် အောက်မေ့လို့ပါကွယ်ဟု ကြေကွဲသံဖြင့် မိန့်ဆိုသတတ်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၉ )

ထိုအကြောင်းနှင့် စပ်လျဉ်း၍ ဘုန်းတော်ကြီး ဦးသာရွှန်းသည် ထိုအချိန်အထိ တရားထူး တရားမြတ်မရသေး အနာဂါမ်မဖြစ်သေးဟုသိရပါသည်ဟု ဆရာကြီးဦးဌေးလှိုင်က မှတ်ချက်ပြုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၉ )

## ကိုယ်မှ အလင်းရောင်များ ဖူးတွေ့ရခြင်း



ထိုအချိန်အထိ ဘုန်းတော်ကြီးသည် အနာဂါမ်ပင် မဖြစ်သေးဟု သိရ၏။ များမကြာမီပင် ဘုန်းတော်ကြီး၏ တရားအသိဉာဏ်များ တိုးတက်လာဟန်ရှိသည်။ ကပ္ပိယဦးပွားပေါ်သည် သုံးထပ်ကျောင်းပေါ်၌ ဘုန်းတော်ကြီးနှင့်မနီးမဝေးတွင် အိပ်ရ၍ နိုးတိုင်း ဘုန်းတော်ကြီးအားကြည့်ရာ ဘုန်းတော်ကြီးမှာ မအိပ်စက်၊ ထိုင်လျက်သားချည်းတွေ့ရ၏။ ဘုန်းတော်ကြီး ပတ်ဝန်းကျင်တစ်ခုလုံး သုံးထပ်ကျောင်းကြီးအတွင်း အရောင်အဝါများ လင်းထိန်နေသည်ကို ညစဉ်မြင်နေရသည်ဟု ဦးပွားပေါ်ကပြောပြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၉ )

ဘုန်းတော်ကြီးသည် ပရိနိဗ္ဗာန်စံတော်မူသည့်တိုင်အောင် မည်သည့် သာမှု နာမှုကိုမျှ မလိုက်။ ပရိသတ်နှင့် ကင်းနိုင်သမျှ ကင်းအောင်နေ၏ဟူ၍သိရပါသည်။

ဘုန်းတော်ကြီး အသက် ၇၀ ကျော်မှ စ၍ ၁၂၈၂ ခုနှစ် ၉၉ နှစ်တိုင်အောင် ထိုသုံးထပ်ကျောင်း၌ပင် မထင်မရှား သီတင်းသုံးတော်မူ၏။ ထူးထူးခြားခြား မကျန်းမာသည်ဟူ၍လည်း မရှိဟုသိရပါသည်။

၁၈၉၁ - ၁၉၂၀ ထိုအချက်ကို ထောက်၍ ဘုန်းတော်ကြီး ဦးသာရွှန်းသည် အေဒီ ၁၈၉၁ ခု၊ (၁၂၅၃ ခုနှစ်)မှစ၍ အေဒီ ၁၉၂၀ ခု၊ (၁၂၈၂ ခု)အထိ ထိုတောရ၌ သီတင်းသုံးသည်ဟု မှတ်ယူနိုင်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၉၂ )

ရဟန္တာ ဘုန်းတော်ကြီးဦးသာရွှန်း ပရိနိဗ္ဗာန်ပြုပုံကို မျက်စိထဲမြင်သာအောင် ရေးပြနိုင်သူမှာ မှော်ဘီစရိယ ဦးဌေးလှိုင်ဖြစ်လေသည်။ ဤသို့ ရေးနိုင်အောင်လည်း ဦးဌေးလှိုင်သည် စာတွေ့ ငါတွေ့စုံအောင် ရှာဖွေခဲ့လေသည်။ ရှာဖွေပုံကို ဤသို့သိရ၏။

ဦးသာရွှန်းအကြောင်းမှာ ကျွန်ုပ်တို့၏ နောင်တော်ကြီး မောင်ထောင်ယွန်းဆက်တိုက် ဆရာတော်ဦးသောဘိတကိုယ်တိုင် လေ့လာရေးသားထားသော မှတ်တမ်းအရဖော်ပြပါမည်။ ထိုမှတ်တမ်းမှာ ဦးသာရွှန်း၏ ကပ္ပိယဖြစ်သူ ညောင်ကန်ရွာအနီး အုတ်အိုင်ရွာမှ အသက် ၈၅ နှစ်ရှိ ဦးလူမင်းနှင့် အုတ်အိုင်ကျောင်း ဘုန်းကြီးတို့အား မေးမြန်း၍ ရေးသားထားသော မှတ်တမ်းဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၅ )

ဤစာရေးသူကိုယ်တိုင်ကလည်း ထိုကျောင်းသို့သွားရောက်၍ ထိုပုဂ္ဂိုလ်များအား ထပ်မံစုံစမ်းမေးမြန်းပြီး ရေးသားပါသည်။ ဆရာတော် သီတင်းသုံးသွားသော ရှေးသုံးထပ်ကျောင်းလည်း ယခုတိုင်တွေ့နိုင်ပါသေးသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈၅ )

၁၉၂၀ ဘုန်းတော်ကြီး ဦးသာရွှန်းသည် သက်တော် ၉၉ နှစ် ၉ လ ၉ ရက်နေ့တွင် ပရိနိဗ္ဗာန်ပြုတော်လေသည်ဟု သိရှိရပါသည်။ ထိုနှစ်သည် အေဒီ ၁၉၂၀ ခု၊ ၁၂၈၂ ခု၊ မှန်းဆရပါသည်။



ထိုအကြောင်းနှင့် စပ်လျဉ်း၍ ဓာတ်တော် တဖွားဖွားကျပုံကို အောက်ပါအတိုင်း ကြည်ညိုစွာ ဖတ်ရှုရပါသည်။

### ပေါင်ရိုး တင်ပါးဆုံရိုး ခြေသလုံးရိုးများကျန်၍ ဓာတ်တော်များ တဖွားဖွားကျခြင်း

မီးသင်္ဂြိုဟ်သောအခါ ပေါင်ရိုး တင်ပါးဆုံရိုး ခြေသလုံးရိုးများသာ အရိုး ပကတိကျန်၍ အခြားအသွေး အသားအရိုးများအားလုံး ဓာတ်တော်များဖြစ်ကုန်၏။ အချို့ဓာတ်တော်များမှာ အရိုးကြီးသုံးခုတွင် အညှာကလေးများဖြင့် အဆုပ်ဆုပ်သီး၍နေကြသည်။ အရိုးကြီးသုံးခုကိုမူ အုတ်အိုင်ရွာတောင်ကျောင်းအဝင်ရှိ အရိုးအိုးစေတီ၌ ဌာပနာထားကြရ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၉၄ )

ထိုအရိုးအိုးတွင်လည်း အခြားဘုန်းတော်ကြီးနှစ်ပါး၏ အရိုးများနှင့် ရောစပ်နေပြီဟုဆိုသည်။ ဓာတ်တော်များကိုမူ အသီးသီးခွဲယူပူဇော်ကြရာ အုတ်အိုင်ကျောင်း၌လည်းကောင်း၊ မောင်းထောင်ယွန်းဆက်တိုက်၌လည်းကောင်း ဖူးမြော်နိုင်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၉၄)

### ကန်ဆရာတော်၏ ငယ်ဆရာဖြစ်ခဲ့ခြင်း

အလွန်ကျော်စောတော်မူသော ကန်ဆရာတော်ဘုရားကြီးသည် ဘုန်းတော်ကြီး ဦးသာရွှန်း ရဟန္တာကိုယ်တော်မြတ်ကြီးထံ၌ နည်းနာခံဖူးသည်ဟု သိရပါသည်။ ထို့ကြောင့်လည်း ထိုရဟန္တာဦးသာရွှန်း ပရိနိဗ္ဗာန်ပြုသောအခါ ကန်ဆရာတော်ဘုရားလည်း ဓာတ်တော်ခုနစ်ဆူ ပင့်ဆောင်၍ ညစဉ် ဆီမီးပူဇော်လေ့ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၉၄ )

ကန်ဆရာတော်လောင်းလျာ ဖြစ်သော ဦးပဥ္စင်းငယ် ဦးသောဘိတသည်လက်ပံတောရ ဆရာတော်ထံ ဝိပဿနာတရားများ နည်းခံကျင့်ကြံ၍ ကန်မြို့သို့ ပြန်ရာတွင် ညောင်ကန်ရွာသို့အရောက် ဘုန်းတော်ကြီးဦးသာရွှန်းအကြောင်း စုံစမ်းသည်။ တစ်တောထွက်ဝင် လိုက်လံရှာဖွေရာ ဆရာတော်ဦးဗုဒ်၏ ညောင်ကန်ရွာ၏ တောင်ဘက် သုံးမိုင်ခန့်ရှိ ရှင်မချောက်အတွင်း တရားရှုမှတ်နေသော ဘုန်းတော်ကြီးကို တွေ့ရ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ မေ္ဘာစရိယ ဦးဒွေးလှိုင်)

၁၉၂၀ ဘုန်းတော်ကြီး ဦးသာရွှန်းသည် သက်တော် ၉၉ နှစ် ၉ လ ၉ ရက်နေ့တွင် ပရိနိဗ္ဗာန်ပြုတော်မူလေသည်ဟု သိရှိရပါသည်။ ထိုနှစ်သည် အေဒီ ၁၉၂၀ ခု၊ (၁၂၈၂ ခု) မှန်းဆရပါသည်။

(ကျမ်းကိုး၊ မေ္ဘာစရိယ ဦးဒွေးလှိုင်၊ စာ ၁၉၃ )

# ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး

## အေဒီ ၁၈၂၂ - ၁၈၉၃ ( ၁၁၈၄ - ၁၂၅၅ )





အောက်ပါအဖြစ်အပျက်သည် ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် စပ်လျဉ်း၍ လွန်စွာ ကြည်ညိုဖွယ်ရာ အံ့ဩဖွယ်ဖြစ်ရပ်ဆန်းဖြစ်ပါသည်။ အရိယာသူတော်စင်ကြီးများသာလျှင် တတ်စွမ်းနိုင်သော ဂုဏ်ထူးများဖြစ်ပါသည်။ ထိုအချက်ကို ဗုဒ္ဓမဓမ္မလောကစာစောင်မှ ထုတ်နုတ်ထားခြင်းဖြစ်ပါသည်။ ဖတ်ကြည့်ပါ။

## ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ ပရိတ်တန်ခိုး

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးသည် ၁၂၃၃ ခုနှစ်တွင် မကွေးတိုင်း၊ မင်းလှမြို့၊ နွားလန်တောင်တောရ နန္ဒမူလိုဏ် မဥ္ဇူသကကျောင်း၌ သီတင်းသုံးတော်မူပါသည်။ ဆရာတော်ကြီးရောက်ရှိပြီး နောက်တစ်နှစ် ၁၂၃၄ ခုနှစ် နှစ်ဦးကား မိုးအလွန်ခေါင်သည်။ ပြီးခဲ့သောနှစ်က မိုးနည်းပါးသဖြင့် ကန်ရေချောင်းရေများနည်းခဲ့ရာ ယခုနှစ်မိုးဦးခေါင်နေပြန်သဖြင့် သတ္တဝါတွေ ဆင်းရဲဒုက္ခရောက်ကြရသည်။ ကန်ချောင်းများ ရေခန်းခြောက်ကုန်ပြီဖြစ်၍ ကန်ချောင်းတို့ကို အမှီပြုရသော သတ္တဝါတို့လည်း သေကျေပျက်စီးရ၊ ကျွဲနွားစသော သတ္တဝါတို့လည်း ပင်ပန်းဆင်းရဲကြရသည်။

အခါတိုင်း ရေပြတ်ခဲလှသော ပဌာနဂိုရ် အင်းကြီးသည် ရေခန်းခြောက်နေသဖြင့် ထိုအင်းကိုအမှီပြုကြရသော ရေသတ္တဝါတို့လည်း အလွန်ဆင်းရဲကြသည်။ လူတို့၏ ဖမ်းဆီးသတ်ဖြတ်ခြင်း၊ ရေပူနေပူဒဏ်တို့ကြောင့် သေကျေရခြင်း များကုန်၏။ ကျွဲနွားများလည်း စားစရာမြက်မရှိ၊ သောက်စရာရေကရှား ဖြစ်နေကြရလေသည်။

ထိုသို့ သတ္တဝါတွေ ဆင်းရဲနေကြသည်ကို ရွှေကျင်ဆရာတော်ဘုရားကြီး ကြားသိတော်မူသောအခါ သနားခြင်းကရုဏာ ဖြစ်ပေါ်လာကာ မိုးကိုရွာစေခြင်းဖြင့် ဤသတ္တဝါတွေကို ငါကယ်တင်အံ့ဟု ဆုံးဖြတ်တော်မူပြီးလျှင် ငါးရံ့မင်း ပရိတ်ကို အဓိဋ္ဌာန်ဖြင့်ရွတ်ရန် စီစဉ်တော်မူသည်။

ပရိတ်ရွတ်မည့်နေ့တွင် နံနက်စောစောအချိန်မှစ၍ ဘုရားရှင်အား ဆီမီး ရေချမ်း ပန်းနှင့် သစ်သီးဆွမ်းများကပ်လှူသည်။ ထို့နောက် ဘုရားရှင်၏ ငါးရံ့မင်း ဘဝဖြစ်တော်စဉ်ကို အဖန်ဖန်ဆင်ခြင်၍ ဉာတတ္ထစရိယ ဖြည့်ကျင့်တော်မူခဲ့ပုံကို အာရုံပြု၍ ကြည်ညိုတော်မူသည်။

ထို့နောက် ရဟန်းဖြစ်သည့်အချိန်မှစ၍ အညစ်အကြေးကင်း ဖြူဝင်း တောက်ပ စင်ကြယ်လှသော မိမိ၏သီလကို ဆင်ခြင်တော်မူသည်။

ရဟန်းဖြစ်သည့် အချိန်မှစ၍ အမြဲဆောင်ခဲ့သော တိစီဝရိတ်ဓုတင် ပိဏ္ဍပါတ်ဓုတင်နှင့် ခလုပစ္ဆာဓုတင်၊ တောထွက်လာသည့်အချိန်မှစ၍ ဆောက်တည်ခဲ့သော ပံ့သုကူဓုတင်၊ ရုံဖန်ရုံခါ ဆောင်ခဲ့သော ကြွင်းသော ဓုတင်တို့ကို ဆင်ခြင်တော်မူသည်။

တဏှာ မာန ကောဓ စသော ကိလေသာတရားတို့ ကြားမဝင်နိုင်အောင် အခါမပြတ် နှလုံးသွင်း ပွားများခဲ့သော ဘာဝနာကုသိုလ် ပရိယတ္တိ ကုသိုလ်တို့ကို ဆင်ခြင်တော်မူသည်။

ဤသို့ ဆင်ခြင်တော်မူပြီး မိုးနတ်သားအား အထူးအမျှဝေသည်။ တောစောင့်နတ်၊ တောင်စောင့်နတ်၊ ဘုမ္မစိုး၊ ရုက္ခစိုး စသော နတ်တို့ကို အမျှပေးဝေသည်။ ဤသို့သောနည်းဖြင့် တစ်နံနက်လုံး ဆင်ခြင်ပွားများသည်။ ဆွမ်းကိစ္စပြီးသောအခါ



ကိုယ်လက်သုတ်သင်ပြီးလျှင် နေ့ ၁၁ နာရီအချိန်ခန့်တွင် သက်န်းရုံတော်မူ၍ ရေခန်းလျက်ရှိသော ပဋ္ဌာနကိုရိအင်းဘက်သို့ ကြွတော်မူပြီးလျှင် အင်း၏ အလယ်ချက်မ နေရာ၌ ရပ်ကာ -

အကြင်မျှလောက်သော ကာလပတ်လုံး ဤအင်းအတွင်းရှိ သတ္တဝါများ အင်းကို အမှီပြုကြရသော သတ္တဝါများ ချမ်းသာစေနိုင်လောက်သည်အထိ မိုးမရွာသေး၊ ထိုမျှလောက်သော ကာလပတ်လုံး ငါမထတော့အံ့ဟု အဓိဋ္ဌာန်တော်မူပြီး ထိုင်တော်မူလိုက်သည်။ ထို့နောက် ဘုရားအလောင်းတော် ငါးရံ့မင်းဘဝဖြစ်တော်မူစဉ်ကို ဆင်ခြင်အောက်မေ့ကာ အနက်အဓိပ္ပာယ်ကို နှလုံးသွင်းလျက် ဌာန်ကရိုဏ်း ပီသစွာဖြင့် ငါးရံ့မင်းပရိတ်တော်ကို အခေါက်ခေါက်အခါခါ ရွတ်ဆိုတော်မူသည်။

ထိုသို့ရွတ်ဆို၍ မကြာမီကာလတွင် အရပ်မျက်နှာတို့မှ လျှပ်စစ်ရောင်နှင့်တကွ ချုန်းသံပေးကာ မိုးတိမ်လွှာတို့သည် တက်လာကြကုန်၏။ ထိုအခါ ခြစ်ခြစ်တောက်ပူသောနေသည် အေး၍လာပြီး မကြာမီမိုးကြီးရွာချလေသည်။ ဆရာတော်ကြီးကား ထိုင်ရာမှထတော်မမူ၊ တစ်ကိုယ်လုံး ရွဲရွဲစိုနေသော်လည်း ပရိတ်ရွတ်ခြင်းကိစ္စကို ရပ်တန့်တော်မမူဘဲ ရွတ်ဆိုမြဲရွတ်ဆိုတော်မူသည်။ မိုးလည်း ဆက်လက်ရွာသွန်းနေသည်။ ဤသို့သောနည်းဖြင့် အင်းကြီးအတွင်းသို့ ရေများ တဖြည်းဖြည်းများလာရာ ဆရာတော်ကြီးသီတင်းသုံးလျက်ရှိသော အင်းချက်မအရပ်သို့ ရေဖုံးလာသည်။ ထို့နောက် တင်ပျဉ်ခွေမြုပ်လာသည်။ ဆရာတော်ကြီးကား ပရိတ်ရွတ်မပျက်။ နေရာမှမထ။ ဤသို့ဖြင့် တဖြည်းဖြည်း ခါးအထိ ရေတွေတက်လာမှ ပရိတ်ရွတ်တော်မူနေသည်ကို အရွတ်ရပ်၍ နေရာမှထလိုက်သည်။ ထို့နောက် ရပ်တော်မူရင်း -

မြတ်စွာဘုရား ဟောကြားတော်မူအပ်သော ပရိတ်တော်ကား၊ တန်ခိုးကြီးမားလှပေစွ၊ ဤမျှအစွမ်းထက်ကြီးမားသော ဘုရားရှင်၏ ဘုန်းတော်တန်ခိုးတော် ကံတော်ဉာဏ်တော်တို့ကား အံ့ဖွယ်ရှိပေစွ၊ ထိုမျှသော ကျေးဇူးဂုဏ်နှင့်ပြည့်စုံသော သက်တော်ထင်ရှား ဘုရားကိုယ်တော်မြတ်ကို ငါဖူးမြော်ခွင့် မရပါတကား၊ သက်တော်ထင်ရှားမြတ်စွာဘုရားကိုထား၍ ထိုဘုရားကိုယ်တော်မြတ်၏ ရွှယ်တော်ဓာတ်ကိုပင် ဖူးခွင့်မကြုံသေးပါတကားဟု ဆင်ခြင်ကာ မျက်ရည်များ ကျလာတော်မူလေသည်။

(ကျမ်းကိုး၊ တင်အောင်သွင်၊ ဗုဒ္ဓဓမ္မလောက စာစောင် ၁၉၉၈ ခု ဇွန်လ အတွဲ ၄၃၊ အမှတ် ၁၀ ၊ စာ ၃၇-၃၈၊ ပထမရွှေကျင်ဆရာတော်ဘုရားကြီး၏ ငါးရံ့မင်း ပရိတ်တန်ခိုး)

## ရသေ့ထူး ဦးခန္တီ ပူဇော်သော ရုပ်တုတော်

ပထမရွှေကျင်ဆရာတော်ဘုရားကြီးပုံတော်ကို မန္တလေးတောင် မြောက်ဘက်စောင်းတန်း အဆင်း လက်ဝဲဘက်ဂူအတွင်းတွင် ရသေ့ကြီးဦးခန္တီက ထုလုပ်ပူဇော်ထားသည်ကို ယခုတိုင် ဖူးတွေ့နိုင်ပါသည်။

(ကျမ်းကိုး၊ စစ်ကိုင်းတောင်ရိုး၊ ရွှေဟင်္သာ ဆရာတော် အရှင် ပဏ္ဍိတထေရ်၊ ဒုတိယအကြိမ် စီစဉ်ရေးသားထားအပ်သော ရွှေကျင်နိကာယ သာသနာဝင်အကျဉ်းနှင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဩဝါဒကထာများ၊ အေဒီ ၁၉၈၈ ခု၊ ဘိုးရာဇာ ပုံနှိပ်တိုက်၊ စာ ၁၅၃)



## စစ်ကိုင်းတောင်ရိုး ရွှေဟသ်ာတောရဆရာတော်၏ အမှတ်အသား

ရွှေကျင်နိကာယ သာသနာ၀င် ရေးသားချီးမြှင့်တော်မူသော စစ်ကိုင်းတောင် ရွှေဟသ်ာ တိုက်သစ်ဆရာတော် အရှင်ပဏ္ဍိတထေရ် စီစဉ်ရေးသားအပ်သော ရွှေကျင်နိကာယ သာသနာ၀င် အကျဉ်းတွင် ရွှေကျင်ဆရာတော်ဘုရားကြီး၏ အတ္ထုပ္ပတ္တိအချုပ်ဟူ၍ တွေ့ရပေရာ ရွှေဟသ်ာ ဆရာတော် ဘုရားကြီး အဆိုအမိန့်အတိုင်း ဤသို့သိရှိရပါသည်။

### မွေးဖွားရာဇာတိ

၁၈၂၂ ရွှေကျင်ဆရာတော်ဘုရားကြီးသည် အေဒီ ၁၈၂၂ ခု (သက္ကရာဇ် ၁၁၈၄ ခုနှစ် ဝါဆိုလဆန်း ၁၃ ရက်)အင်္ဂါနေ့ ရွှေဘိုတောင်ဘက် ရွှေကျင်ရွာ၌ ဖွားမြင်တော်မူသည်။ ငယ်မည်မောင်သန့်ဖြစ်သည်။ ခမည်းတော် ဦးမောင်၊ မယ်တော် မယ်မိ တို့ဖြစ်သည်။

### ရှင်သာမဏေဘဝ

၁၈၂၉ အေဒီ ၁၈၂၉ ခု (၁၁၉၁ ခုနှစ်) အသက် ၇ နှစ်အရွယ် ရွှေကျင်ရွာ ဆရာတော် ဦးဝရပုဒ္ဓိထံ၌ စာပေသင်ကြားသည်။ ဦးဝရပုဒ္ဓိထံ၌ပင် ရှင်သာမဏေဖြစ်သည်။

### သီးလုံးဆရာတော်၏ တပည့်ရင်း

၁၈၃၇ အေဒီ ၁၈၃၇ ခု (၁၁၉၉ ခုနှစ်) အသက် ၁၅ နှစ်၌ရွှေဘိုမြို့ ဝက်ပါကျောင်း ဆရာတော်ထံ၌ ပညာဆက်လက်သင်ကြားသည်။

၁၈၄၀ အေဒီ ၁၈၄၀ ခု (၁၂၀၂ ခုနှစ် ) ၁၈ နှစ်အရွယ်၌ သီးလုံးဆရာတော်ဘုရား ကြီးထံ ဆည်းကပ်မိ၍ အန္တေ၀ါသိက တပည့်ရင်းဖြစ်သည်။

၁၈၄၂ အေဒီ ၁၈၄၂ ခု (၁၂၀၄ ခုနှစ်) အသက် ၂၀ ပြည့်လျှင် ရွှေကျင်ရွာ ဆရာတော် ဦးဝရပုဒ္ဓိထံ၌ ရဟန်းအဖြစ်သို့ရောက်သည်။

အမရပူရနေပြည်တော်ရှိ ကျော်ကြားသော ဆရာတော်များထံသို့ ၈ နှစ် တိုင်တိုင် စာပေသင်ကြား နည်းနိဿ ခံယူခဲ့ပြီးနောက် မန်ကျည်းစဉ် ခေါ်တော ရှိမ်းမကား တောကျောင်းတို့၌ စာပေပို့ချနေသည်။ တပည့်သံဃာ ငါးဆယ်ကျော် ရှိသည်။

မင်းတုန်းမင်းသားနှင့် ကနောင်မင်းသားတို့ ရွှေဘိုအတက်တွင် မန်ကျည်းစဉ် တောကျောင်း၌ ဖူးမြင်ကြရ၍ နောင်အခါ သာသနာပြုတော်မူရန် ကတိလျှောက် တောင်းကြသည်။

၁၈၆၁ အေဒီ ၁၈၆၁ ခု ( ၁၂၂၃ ခုနှစ် )မင်းတုန်းမင်းတရား ထီးနန်းတည်ထောင်ပြီး ၍ ရွှေကျင်ဆရာတော် ၁၉ ဝါအရတွင် မြို့တော်မန္တလေးသို့ပင့်၍ ရွှေကျင်တိုက် ၅ တိုက် တည်ထောင်လှူဒါန်းသည်။

၁၈၆၉ သာသနာပြုတော်မူရန် လျှောက်ထားသဖြင့် မင်းအာဏာစက်နှင့် တွဲဖက်၍ ရွှေကျင်ဆရာတော်ဘုရားကြီး ဓမ္မစက်ဖြင့် အေဒီ ၁၈၆၉ ခုနှစ် (၁၂၃၀ ပြည့်နှစ်)၌ အလုံ ဒီပဲယင်း စသော မြို့တို့၌ ဂိုဏ်းချုပ် ဂိုဏ်းအုပ် ဂိုဏ်းထောက် အကြီးအကဲများ ခန့်ထား၍ သာသနာပြုတော်မူရသည်။



၁၈၇၂ နေပြည်တော် မန္တလေးမြို့၌ အေဒီ ၁၈၇၂ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ ရက်၊ စနေနေ့ (၁၂၃၃ ခုနှစ် တပေါင်းလဆန်း ၁၀ ရက်နေ့) လျှူဒါန်းသော အရှေ့ပြင် မဟာဝိသုဒ္ဓါရာမ စသော ၁၂ ရပ်သော တိုက်တို့၌ ဆရာတော် စာချပုဂ္ဂိုလ်များကို လွှဲအပ်ချီးမြှောက်တော်မူ၍ သာသနာပြုတော်မူသည်။

၁၈၇၅ အေဒီ ၁၈၇၅ - ၇၆ ခုနှစ် (သက္ကရာဇ် ၁၂၃၇ - ၃၈ ခုနှစ်)က စ၍ တောရဆောက်တည်တော်မူသည်။

၁၈၇၇ အေဒီ ၁၈၇၇ - ၇၈ ခုနှစ် (၁၂၃၉ - ၄၀ ခုနှစ်)၌ သီဟိုဠ်သို့ ကြွတော်မူသည်။

၁၈၈၁ သီပေါမင်းပင့်လျှောက်၍ အေဒီ ၁၈၈၁ (၁၂၄၃ ခုနှစ်)၌ မန္တလေးမြို့တော် ရွှေကျင်တိုက်သို့ ကြွရောက်သီတင်းသုံးတော်မူရပြန်သည်။ ထိုနှစ်မှာပင် တောင်တော် ဆရာတော်နှင့်တွဲဖက်၍ ၉ ဌာန သာသနာပြုရန် လျှောက်ထားသဖြင့် သာသနာပြု ရပြန်သည်။

၁၈၈၄ အေဒီ ၁၈၈၄ (၁၂၄၆ ခုနှစ်) သက်တော် ၆၄ နှစ်၌ မင်းကွန်း ငွေတောင် တောရသို့ထွက်၍ သီတင်းသုံးတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၃)

ရွှေကျင်ဆရာတော်ဘုရားကြီးသည် အသက် ၁၈ နှစ်အရွယ်၌ သီးလုံးဆရာတော် ဘုရားကြီး ခြေတော်ရင်းသို့ ဆည်းကပ်မိ၍ သီးလုံးဆရာတော်ဘုရားကြီး၏ တပည့်အရင်း အန္တေဝါသိကဖြစ်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၅)

၎င်းနောက် ရွှေကျင်ဆရာတော်ဘုရားကြီးဖြစ်လာမည့် အရှင်ဇာဂရသည် သီးလုံးဆရာတော် ဘုရားကြီးထံ၌ ဆည်းကပ်ပြီးနောက် မန်ကျည်းကန်ရွာ ဆရာတော် မူးဝရွာထောင်ဆရာတော်များထံ၌ နည်းနိဿယများကို ခံယူလေ့လာပြန်သည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

၁၈၇၁ အေဒီ ၁၈၇၁ (သက္ကရာဇ် ၁၂၃၃ ခုနှစ်)၌ပင် သိင်္ဂါဝါတော် ၃၀ အရ ဘွဲ့တံဆိပ်တော် ဆက်ကပ်လျှူဒါန်းသည်ကို အလျှူခံတော်မမူချေဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၂)

## ရေတံခွန်တောင် စသော တောရသို့ ကြွတော်မူခြင်း

ဆရာတော်ဘုရားကြီးသည် ကိန္နရာတောင် ရေတံခွန်တောင် ဇေဌ်ကိုင်တောရ ကုက္ကိုချောင် တောရတို့သို့ ထွက်ကြွ၍ ဝိပဿနာဓူရကို အားသွန်ကြိုးပမ်းတော်မူခြင်းကာလကို ကုန်လွန်စေတော်မူ သည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၂)

## ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဂုဏ်ရည်များ

ရွှေကျင်ဆရာတော်ဘုရားကြီးသည်လည်း တောထွက်၍ တရားအားထုတ်သည်မှာ ထင်ရှား



သဖြင့် သီးလုံးဆရာတော်ဘုရားကြီး၏ တပည့်ကြီးဖြစ်သည့်ပြင် မိမိကိုယ်တိုင် တောထွက်တရားအားထုတ်နေသော ယောဂီ ပုဂ္ဂိုလ်ကြီးဖြစ်သည့်အလျောက် အမြဲနှလုံးသွင်းသော တရားရှိလိမ့်မည်ဟူ၍ ၎င်းရွှေကျင်ဆရာတော်ဘုရားကြီး၏ တရားအားထုတ်စဉ်ကို ကြိုးစားရှာဖွေခဲ့ရာ ဝိသုဒ္ဓိမဂ္ဂဒီပနီ အမရပါနရှုဖွယ် အဋ္ဌိကကမ္မဋ္ဌာန်းဟူသော နာမည်အသီးသီးဖြင့် ပေမူတစ်ခုကို ရသည့်အခါ သမထလမ်း ဝိပဿနာလမ်းဟု ခွဲခြား၍ တရားအဆင့်ဆင့်တက်၍ နိဗ္ဗာန်တိုင်အောင် ရေးသားထားသည်ကို တွေ့ရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၂)

## န္တားလန်တောင် တောရကျောင်း

၁၈၇၆ ဆရာတော်ဘုရားကြီးသည် အေဒီ ၁၈၇၆ (သက္ကရာဇ် ၁၂၃၈ ခုနှစ်)၌၊ မလွန်မြို့၊ မင်းလှရွာ အရှေ့တောင်မြစ်တစ်ဖက် ဝါးရုံချောင်၊ န္တားလန်တောင် တောရကျောင်း၌ ဝါကပ်တော်မူ၍ ဝိပဿနာ လုပ်ငန်းဖြင့် အချိန်ကို ကုန်စေတော်မူသည်။

၁၈၇၇ အေဒီ ၁၈၇၇ (၁၂၃၉ ခုနှစ်)၌ သီဟိုဠ်ကျွန်းသို့ စွယ်တော်ဓာတ်မြတ်ကို ဖူးမြော်ရင်း ဝါကပ်တော်မူသည်။

## မင်းလှရွာတောရကျောင်း

၁၈၇၈ အေဒီ ၁၈၇၈ (၁၂၄၀ ပြည့်နှစ်)တွင် မင်းလှရွာ တောရကျောင်း၌ပင် ဝါကပ်တော်မူသည်။

၁၈၇၈ အေဒီ ၁၈၇၈ (၁၂၄၀ ပြည့်နှစ် သီတင်းကျွတ်လဆန်း ၆ ရက် အင်္ဂါနေ့)တွင် မင်းတုန်းမင်းတရားကြီး နတ်ရွာစံတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၃)

၁၈၇၈ အေဒီ ၁၈၇၈ (၁၂၄၀ ပြည့်နှစ် သီတင်းကျွတ်လဆန်း ၁၃ ရက်နေ့)တွင် သီပေါမြို့စားမင်းသားသည် ခမည်းတော်၏အရိုက်အရာကို သိမ်းပိုက်စိုးစံသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၄)

၁၈၈၁ အေဒီ ၁၈၈၁ (၁၂၄၃ ခုနှစ်) တွင် သာသနာပိုင် ဘွဲ့တံဆိပ်ကပ်လှူ၍ ၉ ဌာန သာသနာပြု လွှဲအပ်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၆၊ ပုရပိုက်ကူး၊ သက္ကရာဇ် ၁၂၄၃ ခုနှစ် ၊ နယုန်လဆန်း ၂ ရက်နေ့တွင် ရေး။ ဤစာအုပ်၌ တင်ကူးသော သက္ကရာဇ် ၁၃၂၇ ခု ဝါဆိုလဆန်း ၁၂ ရက်နေ့နံနက်တွင် ရေးကူးသည်ဟု တွေ့ရပါသည်။)

## ဂုဏ်တော်များ

ဤအတ္ထုပ္ပတ္တိအကျဉ်းကို ဖတ်ရှုကြရသောပုဂ္ဂိုလ်တို့၏ သန္တာန်၌ အကြံအစည် တစ်စုံတစ်ရာ ဖြစ်ပေါ်ကောင်းဖြစ်ပေါ်ရာပေလိမ့်မည်။ အဘယ်သို့ဖြစ်ပေါ်ရာအံ့နည်းဟူမူ အတ္ထုပ္ပတ္တိအကျဉ်း၌ ပြဆိုခဲ့သည်မျှဖြင့် ဆိုပါလျှင် ရွှေကျင်ကျေးရွာ၌ ရွှေကျင်ဆရာတော်၏ အထိမ်းအမှတ် ဗိမာန်တော်ကြီးကို တည်ဆောက်၍ ဂုဏ်ပြုလောက်သော ဂုဏ်တော်များ ရွှေကျင်ဆရာတော် သန္တာန်၌ ရှိပါလေရဲ့လားဟူ၍



ယုံမှားသံသယ စိတ်အကြံမျိုးကို ဆိုလိုပါသည်။ ထိုစိတ်မျိုးဖြစ်လျှင်လည်း ဖြစ်ထိုက်ပါပေသည်။ အကြောင်းမူကား အတ္တုပ္ပတ္တိမှာ ကျဉ်းသောကြောင့်ဖြစ်သည်ဟူ၍ ပထမ ရွှေကျင်ဆရာတော် ဘုရားကြီး၏ အထိမ်းအမှတ် ဗိမာန်တော် မှတ်တမ်းတွင် စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာတောရ ဆရာတော်ဘုရားကြီး မှတ်တမ်းတင်ထားကြောင်း ဖတ်ရှုရပါသည်။ ထိုမှတ်တမ်းအရ ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်ကို ကြည်ညိုခွင့်ရပါသည်။

(ကျမ်းကိုး၊ ပထမ ရွှေကျင်ဆရာတော် ဘုရားကြီး၏ အထိမ်းအမှတ် ဗိမာန်တော် မှတ်တမ်း၊ ၁၉၈၄ ခု၊ ဇွန်လ၊ စာ ၂၁)

၎င်းနောက် ရွှေဟင်္သာဆရာတော်ဘုရားကြီးက ဤသို့ ဆက်လက် ရေးသားထားသည်ကို ဖတ်ရှု ကြည်ညိုရပါသည်။

> အခါတစ်ပါး၌ သီးလုံးဆရာတော်ဘုရားကြီးသည် ရှိမ်းမကားမှ သိမ်သမုတ် ပင့်၍ ကြွတော်မူသည်။ သိမ်သမုတ်ကိစ္စအတွက် စစ်ကိုင်း၊ မန္တလေး စသော ထိုထို မြို့ရွာတို့မှ ထင်ရှားသော ဆရာတော်များလည်း ကြွတော်မူကြသည်။ သိမ်သမုတ်ကိစ္စ ပြီးသောအခါ သံဃာတော်များက သီးလုံးဆရာတော်ကြီးအား တရားချီးမြှင့်ရန် လျှောက်ထားတောင်းပန်ကြသည်။ ထိုအခါ ဆရာတော်ကြီးက တရားမဟောမီ စကားပလ္လင်အဖြစ် မိန့်ကြားတော်မူသည်မှာ တရားဟောရာ၌ မိမိသဘောကျ အားထုတ် နှလုံးသွင်းလျက်ရှိသော တရားများကိုသာ ဟောမည်ဟု မိန့်တော်မူပြီးသကာလ၊ အနာဂါမ်ဖိုလ်တိုင်အောင် ဝိပဿနာရှုပုံ၊ ဉာဏ်ဖြစ်ပေါ်ပုံ၊ မဂ်ဖိုလ်သို့ ဆိုက်ရောက်ပုံ၊ ဖလသမာပတ်ဝင်စားပုံများကိုပါ ကျနကုန်စင် အောင် ဟောတော်မူပါသတဲ့။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၃)

ရွှေဟင်္သာဆရာတော်ဘုရားကြီး အထက်ပါအတိုင်း ရေးသားပြီးနောက် အောက်ပါအတိုင်း မှတ်ချက်ပြုပါသည်။

> သူတော်ကောင်းများ ဉာဏ်ဖြင့် ဆင်ခြင်လျှင် သီးလုံးဆရာတော်ကြီး၏ ပဋိပတ် စခန်းကို မြင်ပါလိမ့်မည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၃)

ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် စပ်လျဉ်း၍ စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာတိုက်သစ် အဘိဓဇ မဟာရဋ္ဌဂုရု၊ ရွှေဟင်္သာ ဆရာတော်ဘုရားကြီး၊ ဘဒ္ဒန္တပဏ္ဍိတသိရီကိုယ်တော်မြတ်ကြီးက အောက်ပါ အတိုင်း မှတ်တမ်းတင်ထားကြောင်း ဖတ်ရှုရပါသည်။

> ရွှေကျင်နိကာယ သာသနာဝင်ကျမ်းကို ထုတ်ဝေသော ဒကာသည် သီးလုံးဆရာတော်ဘုရားကြီး၏ တရားဟောတော်မူသကဲ့သို့ ရွှေကျင်ဆရာ တော်ဘုရားကြီး ဟောတော်မူသော တရားတော်များ ရှိတန်ရာသည်ဟု ယူဆ ရာမှ ရှာဖွေခဲ့သည်။
>
> အဘယ်ကြောင့် ရှာသနည်းဟူမူ ရွှေကျင်ဆရာတော်သည် တောရ ကျောင်း ဆရာတော်ကြီး၏ အန္တေဝါသိက တပည့်ကြီးဖြစ်ခဲ့သည့်အပြင် တောရ ကျောင်းများသို့ ထွက်တော်မူ၍ ပဋိပတ်ကြောင့် ရွှေကျင်ဆရာတော်ဘုရား



အမြန်လုံးသွင်း အားထုတ်သော တရားတော်သည် ရှိပေလိမ့်မည်ဟု ယုံကြည်သောကြောင့် ကြောင့်ကြပြု၍ ရှာဖွေခြင်းဖြစ်၏။

ရှာဖွေသည့် ဝီရိယ စွမ်းအားအလျောက် ၁။ ဝိသုဒ္ဓိမဂ္ဂဒီပနီ၊ ၂။ အမရပါန ရှုဖွယ်၊ ၃။ အင်္ဂါကမ္မဋ္ဌာန်းအားဖြင့် ရွှေကျင်ဆရာတော်ကြီးကိုယ်တိုင် နှလုံးသွင်း ဆင်ခြင်သော ကျမ်းစာသုံးမျိုးကို ပေမူဖြင့် ရရှိသည်ဟု ရေးသားသည်။ ထိုကျမ်းစာတို့၌ သမထလမ်း၊ ဝိပဿနာလမ်းဟူ၍ ခွဲခြားကာ တရားအဆင့်ဆင့်တက်၍ နိဗ္ဗာန်တိုင်အောင် ရေးသားထားတော်မူသည်ကို ဖတ်ရှုတွေ့မြင်ရပါသည်ဟု ဆက်လက်ရေးထားသည်။ (ဤသည်ကိုလည်း သူတော်ကောင်းများဆင်ခြင်ရန် ဝမ်းမြောက်နမော် သာဓုခေါ်ဖွယ်ကောင်းပေသည်ဟု မှတ်ချက်ပြုထားသည်ကို ဖတ်ရှုရပါသည်။)

(ကျမ်းကိုး။ ယင်းကျမ်း စာ ၂၃-၂၄)

## ဆံတော်တွင်း ဆရာတော်ဘုရား၏ မှတ်တမ်း

သက္ကရာဇ် ၁၃၁၂ ခုနှစ် နတ်တော်လ၌ သက်တော် ၈၀ ကျော် ပဲခူးမြို့ ဆံတော်တွင်း ဆရာတော်ဘုရားကြီး (ပဲခူးမြို့နယ် တောရရွှေကျင်နိကာယ) ရေးသားတော်မူသော မှတ်တမ်းကို ဖတ်ရှု၍ ရွှေကျင်ဆရာတော်ဘုရားကြီးကို ပိုမိုကြည်ညိုရပြန်ပါသည်။

> မန္တလေး ရတနာပုံနေပြည်တော်၌ သီတင်းသုံး၍ သာသနာပြုတော်မူသော ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဂုဏ်ကျေးဇူးသတင်းကို ကြားသိကြကုန်သော မော်လမြိုင်မြို့မှ ပုဂံတောင်ဆရာတော် အရှင်ကေလာသနှင့် ပဲခူး ဟံသာဝတီဆရာတော် အရှင်ဦးသီလတို့သည် ရွှေကျင်ဆရာတော်၏ ခြေတော်ရင်းသို့ လာရောက်ဆည်းကပ်ကြကုန်၏။
>
> ယင်းသို့ ဆည်းကပ်၍ နည်းနိဿယ ခံယူကြရန် အလွန်ကျေနပ် နှစ်သက်အားရ ဝမ်းမြောက်ခြင်းဖြစ်ကြကုန်သည်ဖြစ်၍ ရွှေကျင်ဆရာတော် ဘုရားကြီးအား လျှောက်ထားသည်မှာ တပည့်များတို့သည် အောက်မြန်မာနိုင်ငံတော်၌ ရွှေကျင်နိကာယ၊ ရွှေကျင်ဆရာတော်ဘုရားကြီး၏ နည်းနိဿယ ဩဝါဒများ စည်ပင်ပြန့်ပွားအောင် ဆောင်ရွက်မည့် တပည့်များအဖြစ်ဖြင့် အသိအမှတ်ပြုတော်မူကာ၊ အရာရာ၌ နည်းနာ နိဿယဩဝါဒများ ချီးမြှောက်ပေးသနားတော်မူရန်၊ အထူးသဖြင့်လျှောက်ထားကြသည်ဖြစ်၍ ရွှေကျင်ဆရာတော်ဘုရားကြီးကလည်း ထိုက်သည့်အားလျော်စွာ ဩဝါဒပေးတော်မူလိုက်သည်ဟု မှတ်သားရသည်။ ရွှေကျင်ဆရာတော်ဘုရားကြီး၏ နည်းနာ နိဿယ ဩဝါဒအတိုင်း အရှင်ဦးသီလတို့ ကျင့်သုံးဆောင်ရွက်ကြသော တောရဂိုဏ်းသာသနာပြုအခန်းမှာ ကောင်းမွန် ကြည်ညိုဖွယ်ရှိလှသည်။
>
> (ကျမ်းကိုး။ ယင်းကျမ်း စာ ၂၈)

ရွှေကျင်ဆရာတော်ဘုရားကြီး၏ ညွှန်ကြားဆုံးမ ဩဝါဒပေးတော်မူသည့်အတိုင်း ရဟန္တာဟု ကျော်ကြားတော်မူသော ဘုန်းတော်ကြီး ဦးသီလသည် လိုက်လံဆောင်ရွက်ခဲ့ကြောင်း၊ မှတ်တမ်းအရ သိရှိရပါသည်။

## ရဟန္တာ ဦးသီလနှင့် စပ်လျဉ်း၍



၁၈၉၄ ဘုန်းတော်ကြီး ဦးသီလတို့သည် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ညွှန်ကြားဆုံးမဩဝါဒပေးတော်မူသည့်အတိုင်း လိုက်နာဆောင်ရွက်တော်မူခဲ့ရာ၊ ပဲခူး၊ တောင်ငူ၊ သထုံ၊ မော်လမြိုင်စသောအပိုင်း အရှေ့မြို့နယ်တစ်ခွင်၌ တောရဂိုဏ်းအမည်ဖြင့် သံဃာတော်များသည် ဝိနယကရုကသိက္ခာ ကာမအရာ၌ အတော်အသားတကျရှိသဖြင့် သာသနာတော် ပွင့်လင်းသန့်ရှင်း၍ ဒကာ ဒကာမတို့၌လည်း ကုသိုလ်ပွားများတရားများရကြလေပြီ။ ထိုအချိန်အခါ (၁၂၅၅ ခုနှစ်)ရွှေကျင်ဆရာတော်ဘုရားကြီးသည် အောက်နိုင်ငံအရပ်ရပ် ပင့်ဆောင်ရာသို့ ကြွရောက်၍ သာသနာပြု တရားများကို ဟောကြားတော်မူသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈)

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးသည် ပဲခူးသို့ကြွတော်မူသောအခါ ရဟန္တာဟု ကျော်ကြားသော ဘုန်းတော်ကြီးဦးသီလက ကြွရောက်ပူဇော်ကန်တော့ခဲ့ကြောင်းသိရှိရပါသည်။

## ဘုန်းတော်ကြီး ဦးသီလ လာရောက်ကန်တော့ခြင်း

ပဲခူးမြို့သို့ ရောက်သောအခါ ဘုန်းတော်ကြီး ဦးသီလသည် ရွှေကျင်ဆရာတော်ဘုရားကြီးထံသို့ လာရောက်ကန်တော့သည်။ ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ဘုန်းတော်ကြီးဦးသီလတို့သည် သာသနာရေးကို ဆွေးနွေးနှီးနှောတော်မူကြရာ၊ နှစ်ပါးစလုံး၏ အယူဝါဒသည် မကွဲမပြား သဘောတရားတစ်သားတည်း တစ်ထပ်တည်းကျ၍ ညီညွတ်သောကြောင့် အောက်ပိုင်း၌ တောရရွှေကျင်ဂိုဏ်းဟူ၍ ပညတ်မှည့်ခေါ် သမုတ်တော်မူခဲ့ကြလေသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၉)

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ဘုန်းတော်ကြီး ဦးသီလတို့သည် ဆန္ဒတူ ပေါင်းစည်း၍ ရာမညတိုင်း တောရဂိုဏ်းကြီးကို တည်ထောင်ခဲ့ကြောင်း သိရှိရပါသည်။

## တောရရွှေကျင်ဂိုဏ်း

မြန်မာပြည်အထက်ပိုင်း ရွှေကျင်ဂိုဏ်းတစ်ဂိုဏ်းနှင့် အောက်ပိုင်း ရာမညတိုင်း တောရဂိုဏ်း တစ်ဂိုဏ်းလုံးကိုပေါင်း၍ သူတော်အချင်းချင်း သီတင်းလွှေ့လွှေ့ဟူသကဲ့သို့ ဂင်္ဂါရေနှင့် ယမုံနာရေမခြား တစ်သားတည်းအဖြစ်သို့ ရောက်အောင်ဆောင်ရွက်တော်မူကြသော ရဟန်းသူတော်ကောင်းဖြစ်ကုန်သော ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ဘုန်းတော်ကြီးဦးသီလတို့၏ သူတော်ကောင်းစိတ်မြတ်၊ သူတော်ကောင်းအလုပ်သည် သာမညသာသနာပြု အလုပ်မဟုတ်ဘဲ၊ သူတော်ကောင်းပညာရှိတို့ဖြစ်၍သာလျှင် ဆောင်ရွက်နိုင်သော စည်းလုံးညီညွတ်မှုကြီးဖြစ်ပေသည်။ ပဲခူးမှစ၍ တောရရွှေကျင်ဂိုဏ်းဟူသောအမည်သည် ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ဘုန်းတော်ကြီးဦးသီလတို့ ဆန္ဒတူ ပေါင်းစည်း၍ သမုတ်ပညတ်တော်မူခဲ့ကြသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၉)



ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ ကြည်ညိုဖွယ်ရာ အံ့ဖွယ်များကို မင်းတုန်းမင်းတရားကြီး ကိုယ်တော်ပင်လျှင် အံ့သြကြည်ညိုခဲ့ရကြောင်း မှတ်တမ်းရှိပါသည်။

အခါတစ်ပါး၌ ရွှေကျင်ဆရာတော်နှင့်တကွ ဆရာတော်အချို့ကို မင်းတုန်းမင်းတရားကြီးက မြောက်ဥယျာဉ်တော်သို့ပင့်သည်။ ဆရာတော်များသည် ရောက်နှင့်သော်လည်း မင်းတရားကြီးမရောက်သေးသဖြင့် ဆရာတော်တို့သည် အညောင်းပြေ ဥယျာဉ်တော်အတွင်း ကြွရောက်ကြည့်ရှုတော်မူကြသည်။

ရွှေကျင်ဆရာတော်ဘုရားသည်လည်း သစ်ပင်တစ်ပင်အောက်၌ သစ်ကိုင်းကို ဆွဲလျက် မတ်တပ်ရပ်နေတော်မူသည်။ မင်းတရားကြီး ရောက်လာသော်လည်း သစ်ကိုင်းကို ဆွဲလျက်နေသော ဣရိယာပုတ်ကို မဖျက်ဘဲ နေမြဲတိုင်း နေတော်မူသည်။ ဣရိယာပုတ်ကိုဖျက်၍ ကြည်ညိုစေရန် ပြုပြင်၍နေလျှင် မဟာနိဒ္ဒေသ ပါဠိတော်လာ၊ ကုဟနသဘော မဖြစ်စေလို၍ နေမြဲနေခြင်းဖြစ်သည်။ ကုဟနသဘောဖြင့် ကြည်ညို၍ လှူစေရန် ရည်ရွယ်တောင့်တ၍ ပြုလျှင်လည်း ကုဟန ဖြစ်၏။ ကုဟနကြောင့် ရရှိသော ပစ္စည်းတို့ဖြင့် အသက်မွေးခြင်းသည် မိစ္ဆာဇီဝပါရိသုဒ္ဓိသီလ ပျက်လေတော့သည်။ ဤသို့တိုင်အောင် အပြစ်တို့မှကင်းစေလိုသော ရွှေကျင်ဆရာတော်ဘုရားသည် မင်းတရားကြီးလာသည်ကို မြင်သော်လည်း မူလအနေဖြစ်သော ဣရိယာပုတ်ကို မဖျက်မူ၍ ပကတိ နဂိုနေမြဲ နေတော်မူခြင်းပင်ဖြစ်သည်ဟု ကြည်ညိုဖွယ် ဖတ်ရှုရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁)

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ သီလသမာဓိပညာတော် ကြီးမားပုံတို့ကို ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးကိုယ်တော်တိုင်ပင်လျှင် လက်ပန်းပေါက်ခတ်၍ အံ့ဖွယ်သရဲ ဝမ်းမြောက်ဝမ်းသာ ကြည်ညိုခဲ့ပုံကို လေ့လာတွေ့ရှိရပါသည်။

## မင်းတုန်းမင်းကြီးကိုယ်တိုင် အံ့သြရသော ဖြစ်ရပ်ဆန်း

တစ်နေ့သောနေ့၌ မင်းတုန်းမင်းတရားကြီးသည် အမတ်တစ်ယောက်ကို စေလွှတ်၍ ရွှေကျင်ဆရာတော်ကို ဆွမ်းအလှူခံကြွရန် ပင့်လျှောက်စေပါသည်။ အမတ်သည် ရွှေကျင်ဆရာတော်ကြီးထံရောက်သောအခါ ဆရာတော်ကြီးသည် သင်္ကန်းရုံတော်မူနေသည်ကိုမြင်ရသည်။ ဆရာတော်ဘုရား ဒကာတော် မင်းတရားကြီးက နန်းတော်သို့ ဆွမ်းအလှူခံကြွရန်ပင့်ပါကြောင်းပါဘုရားဟု လျှောက်ထားသည်။ ရွှေကျင်ဆရာတော်ဘုရားသည် သင်္ကန်းရုံပြီးသကာလ မန္တလေးတောင်၏ မြောက်ဘက် အဘိုးအို အမယ်အိုတို့၏လယ်တဲသို့ ဆွမ်းစားကြွတော်မူသည်ကိုတွေ့ရသိရသည်။ အမတ်သည် ရွှေကျင်ဆရာတော်ကိုလည်း ထပ်မံ၍မလျှောက်ဝံ့။ အချိန်ကြာမြင့်မှ နန်းတော်သို့ရောက်၏။ မင်းတရားကြီးက ရွှေကျင်ဆရာတော်ကြွလာပြီလားဟု မေးရာ လမ်းမှာမြင်ခဲ့သည့်အတိုင်း လျှောက်ထားရာ မင်းတရားကြီးသည် ကြည်ညို ဝမ်းမြောက်၍ ငါကဲ့သို့ ဘုရင်၏မျက်နှာကိုမငဲ့၊ ဦးစွာပင့်ထားသောဆွမ်းကိုသာ ကြွရောက် ဘုဉ်းပေးတော်မူသောဆရာတော်ကို ငါကိုးကွယ်ရပေသည်တကားဟု လက်ပန်းပေါက်ခတ်သောဟူ၏။ ရွှေကျင်ဆရာတော်ဘုရားကြီးသတ္တိကား အံ့ချီးလောက်ပါပေသည်ဟု ကြည်ညိုဖွယ်ရာဖတ်ရှုရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၆)

## ရဟန္တာ ဦးသီလနှင့် စပ်လျဉ်း၍



၁၈၉၄ ဘုန်းတော်ကြီး ဦးသီလတို့သည် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ညွှန်ကြားဆုံးမဩဝါဒပေးတော်မူသည့်အတိုင်း လိုက်နာဆောင်ရွက်တော်မူခဲ့ရာ၊ ပဲခူး၊ တောင်ငူ၊ သထုံ၊ မော်လမြိုင်စသောအပိုင်း အရှေ့မြို့နယ်တစ်ခွင်၌ တောရဂိုဏ်းအမည်ဖြင့် သံဃာတော်များသည် ဝိနယကရုကသိက္ခာ ကာမအရာ၌ အတော်အသားတကျရှိသဖြင့် သာသနာတော် ပွင့်လင်းသန့်ရှင်း၍ ဒကာ ဒကာမတို့၌လည်း ကုသိုလ်ပွားများ တရားများရကြလေပြီ။ ထိုအချိန်အခါ (၁၂၅၅ ခုနှစ်)ရွှေကျင်ဆရာတော်ဘုရားကြီးသည် အောက်နိုင်ငံအရပ်ရပ် ပင့်ဆောင်ရာသို့ ကြွရောက်၍ သာသနာပြု တရားများကို ဟောကြားတော်မူသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈)

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးသည် ပဲခူးသို့ကြွတော်မူသောအခါ ရဟန္တာဟု ကျော်ကြားသော ဘုန်းတော်ကြီးဦးသီလက ကြွရောက်ပူဇော်ကန်တော့ခဲ့ကြောင်းသိရှိရပါသည်။

## ဘုန်းတော်ကြီး ဦးသီလ လာရောက်ကန်တော့ခြင်း

ပဲခူးမြို့သို့ ရောက်သောအခါ ဘုန်းတော်ကြီး ဦးသီလသည် ရွှေကျင်ဆရာတော်ဘုရားကြီးထံသို့ လာရောက်ကန်တော့သည်။ ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ဘုန်းတော်ကြီးဦးသီလတို့သည် သာသနာရေးကို ဆွေးနွေးနှီးနှောတော်မူကြရာ၊ နှစ်ပါးစလုံး၏ အယူဝါဒသည် မကွဲမပြား သဘောတရားတစ်သားတည်း တစ်ထပ်တည်းကျ၍ ညီညွတ်သောကြောင့် အောက်ပိုင်း၌ တောရရွှေကျင်ဂိုဏ်းဟူ၍ ပညတ်မှည့်ခေါ် သမုတ်တော်မူခဲ့ကြလေသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၉)

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ဘုန်းတော်ကြီး ဦးသီလတို့သည် ဆန္ဒတူ ပေါင်းစည်း၍ ရာမညတိုင်း တောရဂိုဏ်းကြီးကို တည်ထောင်ခဲ့ကြောင်း သိရှိရပါသည်။

## တောရရွှေကျင်ဂိုဏ်း

မြန်မာပြည်အထက်ပိုင်း ရွှေကျင်ဂိုဏ်းတစ်ဂိုဏ်းနှင့် အောက်ပိုင်း ရာမညတိုင်း တောရဂိုဏ်း တစ်ဂိုဏ်းလုံးကိုပေါင်း၍ သူတော်အချင်းချင်း သီတင်းလွှေ့လွှေ့ဟူသကဲ့သို့ ဂင်္ဂါရေနှင့် ယမုံနာရေမခြား တစ်သားတည်းအဖြစ်သို့ ရောက်အောင်ဆောင်ရွက်တော်မူကြသော ရဟန်းသူတော်ကောင်းဖြစ်ကုန်သော ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ဘုန်းတော်ကြီးဦးသီလတို့၏ သူတော်ကောင်းစိတ်မြတ်၊ သူတော်ကောင်းအလုပ်သည် သာမညသာသနာပြု အလုပ်မဟုတ်ဘဲ၊ သူတော်ကောင်းပညာရှိတို့ဖြစ်၍သာလျှင် ဆောင်ရွက်နိုင်သော စည်းလုံးညီညွတ်မှုကြီးဖြစ်ပေသည်။ ပဲခူးမှစ၍ တောရရွှေကျင်ဂိုဏ်းဟူသောအမည်သည် ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ဘုန်းတော်ကြီးဦးသီလတို့ ဆန္ဒတူ ပေါင်းစည်း၍ သမုတ်ပညတ်တော်မူခဲ့ကြသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၉)



ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ ကြည်ညိုဖွယ်ရာ အံ့ဖွယ်များကို မင်းတုန်းမင်းတရားကြီးကိုယ်တော်ပင်လျှင် အံ့သြကြည်ညိုခဲ့ရကြောင်း မှတ်တမ်းရှိပါသည်။

အခါတစ်ပါး၌ ရွှေကျင်ဆရာတော်နှင့်တကွ ဆရာတော်အချို့ကို မင်းတုန်းမင်းတရားကြီးက မြောက်ဥယျာဉ်တော်သို့ပင့်သည်။ ဆရာတော်များသည် ရောက်နှင့်သော်လည်း မင်းတရားကြီးမရောက်သေးသဖြင့် ဆရာတော်တို့သည် အညောင်းပြေ ဥယျာဉ်တော်အတွင်း ကြွရောက်ကြည့်ရှုတော်မူကြသည်။

ရွှေကျင်ဆရာတော်ဘုရားသည်လည်း သစ်ပင်တစ်ပင်အောက်၌ သစ်ကိုင်းကို ဆွဲလျက် မတ်တပ်ရပ်နေတော်မူသည်။ မင်းတရားကြီး ရောက်လာသော်လည်း သစ်ကိုင်းကို ဆွဲလျက်နေသော ကြိယာပုတ်ကို မဖျက်ဘဲ နေမြဲတိုင်း နေတော်မူသည်။ ကြိယာပုတ်ကိုဖျက်၍ ကြည်ညိုစေရန် ပြုပြင်၍နေလျှင် မဟာနိဒ္ဒေသ ပါဠိတော်လာ၊ ကုဟနသဘော မဖြစ်စေလို၍ နေမြဲနေခြင်းဖြစ်သည်။ ကုဟနသဘောဖြင့် ကြည်ညို၍ လှူစေရန် ရည်ရွယ်တောင့်တ၍ ပြုလျှင်လည်း ကုဟန ဖြစ်၏။ ကုဟနကြောင့် ရရှိသော ပစ္စည်းတို့ဖြင့် အသက်မွေးခြင်းသည် မိစ္ဆာဇီဝပါရိသုဒ္ဓိသီလ ပျက်လေတော့သည်။ ဤသို့တိုင်အောင် အပြစ်တို့မှကင်းစေလိုသော ရွှေကျင်ဆရာတော်ဘုရားသည် မင်းတရားကြီးလာသည်ကို မြင်သော်လည်း မူလအနေဖြစ်သော ကြိယာပုတ်ကို မဖျက်မူ၍ ပကတိ နဂိုနေမြဲ နေတော်မူခြင်းပင်ဖြစ်သည်ဟု ကြည်ညိုဖွယ် ဖတ်ရှုရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁)

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ သီလသမာဓိပညာတော် ကြီးမားပုံတို့ကို ပဋ္ဌမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးကိုယ်တော်တိုင်ပင်လျှင် လက်ပန်းပေါက်ခတ်၍ အံ့ဖွယ်သရဲ ဝမ်းမြောက်ဝမ်းသာ ကြည်ညိုခဲ့ပုံကို လေ့လာတွေ့ရှိရပါသည်။

## မင်းတုန်းမင်းကြီးကိုယ်တိုင် အံ့သြရသော ဖြစ်ရပ်ဆန်း

တစ်နေ့သောနေ့၌ မင်းတုန်းမင်းတရားကြီးသည် အမတ်တစ်ယောက်ကို စေလွှတ်၍ ရွှေကျင်ဆရာတော်ကို ဆွမ်းအလှူခံကြွရန် ပင့်လျှောက်စေပါသည်။ အမတ်သည် ရွှေကျင်ဆရာတော်ကြီးထံရောက်သောအခါ ဆရာတော်ကြီးသည် သင်္ကန်းရုံတော်မူနေသည်ကိုမြင်ရသည်။ ဆရာတော်ဘုရား ဒကာတော် မင်းတရားကြီးက နန်းတော်သို့ ဆွမ်းအလှူခံကြွရန်ပင့်ပါကြောင်းပါဘုရားဟု လျှောက်ထားသည်။ ရွှေကျင်ဆရာတော်ဘုရားသည် သင်္ကန်းရုံပြီးသကာလ မန္တလေးတောင်၏ မြောက်ဘက်အဘိုးအို အမယ်အိုတို့၏လယ်တဲသို့ ဆွမ်းစားကြွတော်မူသည်ကိုတွေ့ရသိရသည်။ အမတ်သည် ရွှေကျင်ဆရာတော်ကိုလည်း ထပ်မံ၍မလျှောက်ဝံ့။ အချိန်ကြာမြင့်မှ နန်းတော်သို့ရောက်၏။ မင်းတရားကြီးက ရွှေကျင်ဆရာတော်ကြွလာပြီလားဟု မေးရာ လမ်းမှာမြင်ခဲ့သည့်အတိုင်း လျှောက်ထားရာ မင်းတရားကြီးသည် ကြည်ညို ဝမ်းမြောက်၍ ငါကဲ့သို့ ဘုရင်၏မျက်နှာကိုမငဲ့၊ ဦးစွာပင့်ထားသောဆွမ်းကိုသာ ကြွရောက် ဘုဉ်းပေးတော်မူသောဆရာတော်ကို ငါကိုးကွယ်ရပေသည်တကားဟု လက်ပန်းပေါက်ခတ်သောဟူ၏။ ရွှေကျင်ဆရာတော်ဘုရားကြီးသတ္တိကား အံ့ချီးလောက်ပါပေသည်ဟု ကြည်ညိုဖွယ်ရာဖတ်ရှုရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၆)



ရွှေကျင်ဆရာတော်ဘုရားကြီးသည် နှုတ်ဖြင့်သာလျှင် ဟောပြောကာ သာသနာပြုသည် မဟုတ်ချေ။ တစ်ရာကျော်သော ကျမ်းပေါင်းများစွာတို့ကို ရေးသားခြင်းဖြင့်လည်း သာသနာပြုတော်မူခဲ့သည်။ ရေးသားတော်မူသော ကျမ်းစာတိုင်းသည်လည်း အနှစ်အသားပါရှိ၍ လေးနက်ခိုင်ခန့်သော ကျမ်းစာတို့သာဖြစ်သည်။ အထူးအားဖြင့် ဂမ္ဘီရာ ဂမ္ဘီရ မဟာနိဗ္ဗုတ ဒီပနီကျမ်းသည် သာလွန်လေးနက်၍ ကြီးကျယ်ပြန့်ပြောသော ကျမ်းစာကြီးဖြစ်သည်ဟု စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတ ထေရ်မြတ်က မိန့်တော်မူခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၇)

ထိုအချက်နှင့် စပ်လျဉ်း၍ ရွှေဟင်္သာဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း မှတ်တမ်းတင်ခဲ့ပါသည်။

၁၈၈၃ သက္ကရာဇ် ၁၂၄၅ ခုနှစ်၌ ရေးသားတော်မူသော ဝိစိတြဝန္ဒနာ ဘုရားရှိခိုး ပါဠိဂါထာအနက်သည် မြတ်စွာဘုရား၏ ဂုဏ်တော်တို့ကို ရှာရှာဖွေဖွေ နိုက်နိုက်ချွတ်ချွတ် ဆန်းဆန်းကြယ်ကြယ် သဒ္ဒါနည်း၊ ဆန်းနည်း၊ အလင်္ကာနည်းတို့ဖြင့် တန်ဆာဆင်၍ ရေးသားတော်မူသော ဘုရားရှိခိုးဖြစ်သည်။ ယင်း ဘုရားရှိခိုးကို အင်္ဂလိပ်လူမျိုး ပါဠိပါမောက္ခ မစ္စတာဂျေဂရေးသည် အင်္ဂလိပ်ဘာသာသို့ ပြန်၍ကမ္ဘာအနှံ့ ထုတ်ဝေခဲ့သည်။ ပါမောက္ခ မစ္စတာဂျေဂရေးသည်လည်း ဝိစိတြဝန္ဒနာကို နှစ်သက်ခြင်းမှစ၍ ရွှေကျင်ဆရာတော်ကြီး၏ ဥပါသကာတစ်ယောက်အဖြစ်သို့ ရောက်လေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၈)

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဂုဏ်သတင်းကြောင့် မြန်မာနိုင်ငံတော်အောက်ပိုင်း ရာမညတိုင်း အရညဝါသီ ရွှေကျင်ဂိုဏ်းကြီး ထွန်းကားပေါ်ပေါက်လာသည်မှာကား ဤသို့တည်း။

ရွှေကျင်ဆရာတော်ဘုရားကြီး၏ သီလစသော ဂုဏ်တော်ရနံ့ကို ရှုရှိုက်ကြားသိတော်မူရသော ပုဂံတောင်ဆရာတော် အရှင်ကေလာသနှင့် ပဲခူးဟံသာဝတီဆရာတော် ဦးသီလအရှင်မြတ်တို့သည် (နောင်အခါ ရဟန္တာဟု ကျော်ကြားအံ့သော ဘုန်းတော်ကြီး ဦးသီလပင်တည်း) မန္တလေးနေပြည်တော်သို့ ကြွတော်မူ၍ ရွှေကျင်ဆရာတော်ဘုရားကြီးထံသို့ ဆိုက်ရောက်သဖြင့် ရွှေကျင်ဆရာတော်ဘုရားကြီးကို ဖူးတွေ့ရလျှင်ပင် အလွန်နှစ်လိုဝမ်းမြောက်တော်မူကြသည်ဟူ၏။

(ကျမ်းကိုး၊ စစ်ကိုင်းတောင်ရိုး၊ ရွှေဟင်္သာ ဆရာတော် အရှင် ပဏ္ဍိတထေရ်၊ ဒုတိယအကြိမ် စီစဉ်ရေးသား ထားအပ်သော ရွှေကျင်နိကာယ သာသနာဝင် အကျဉ်းနှင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဩဝါဒကထာများ၊ အေဒီ ၁၉၈၈ ခု၊ ဘိုးရာဇာ ပုံနှိပ်တိုက်၊ စာ ၁၀၃)

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးသည် ဘုန်းတော်ကြီး ဦးသီလအား ဩဝါဒဒေသနာ ပေးခဲ့ပုံနှင့် စပ်လျဉ်း၍ ဤသို့တွေ့ရှိရပါသည်။

## ဘုန်းတော်ကြီး ဦးသီလအား ဩဝါဒပေးပုံ

မြန်မာနိုင်ငံတော်အောက်ပိုင်း၌ ရွှေကျင်ဂိုဏ်းများအဖြစ် ယုံကြည်မှတ်သားတော်မူရန် လျှောက်ထားကြသည့်အတိုင်း ရွှေကျင်ဆရာတော်ဘုရားကြီးကလည်း ဆရာစဉ်ဆက် ဆောင်ရွက်လာခဲ့သော နည်းနိဿယများနှင့်တကွ



ကာလဒေသ အားလျော်သော ဩဝါဒဒေသနာတို့ကို ဟောကြားပြ နည်းနိဿယျ ပေးတော်မူလိုက်သည်ဟု သိရှိရပေသည်။

ထိုအရှင်နှစ်ပါးတို့သည် ရွှေကျင်ဆရာတော်ဘုရားကြီး ချီးမြှင့်တော်မူသော သာသနာတော်နှင့်စပ်သမျှ နည်းနိဿယျ ဩဝါဒတို့ကို ကောင်းစွာမှတ်သား နာယူခဲ့ကြပြီးလျှင် မိမိတို့နေရင်းဌာနသို့ ပြန်ကြွတော်မူခဲ့ကြကုန်၏။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀၄)

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဆုံးမဩဝါဒနှင့်အညီ ဘုန်းတော်ကြီးဦးသီလသည် ပဲခူး ဟံသာဝတီတွင် သာသနာပြုပုံကို ဤသို့လေ့လာတွေ့ရှိရပါသည်။

## မြန်မာနိုင်ငံတော်အောက်ပိုင်း၌ အရှည်ဝါသီ

ပဲခူး ဟံသာဝတီသို့ ဆိုက်ရောက်တော်မူကြလျှင် ဘုန်းတော်ကြီး ဦးသီလ၏ ငယ်ဆရာဖြစ်ကြပေကုန်သော ဆရာတော်ဦးဘုံ (ဦးပုံဟူ၍လည်းခေါ်သည်) ဦးရှမ်းကြီး စသော ကျေးဇူးရှင်ဆရာတော်ဘုရားများအား ရိုသေစွာဂရုဂါရဝပြုလျက် ရွှေကျင်ဆရာတော်ဘုရားကြီး ဂုဏ်တော်ကျေးဇူးတော်များကို လျှောက်ထားလေရာ ပဏ္ဍိတ သာမဏေလျှောက်ထားသည်ကို အရှင်သာရိပုတ္တရထေရ် လိုက်နာသကဲ့သို့ ဘုန်းတော်ကြီးဦးသီလတို့ လျှောက်ထားချက်များကို နှစ်လိုအားရ သဘောကျတော်မူကြ၍ မိမိတို့နေရင်း ကျောင်းကန်နှင့်တကွ ရွာကိုပါ စွန့်ခွာတော်မူကြပြီးလျှင် တောရဆောက်တည်တော်မူကြကုန်၏။ ဤမှစ၍ ဘုန်းတော်ကြီးဦးသီလကို အကြောင်းပဘာဝအမွန်အစပြုကာ မြန်မာနိုင်ငံတော်အောက်ပိုင်း၌ အရှည်ဝါသီ ရွှေကျင်ဂိုဏ်း ရွှေကျင်နိကာယဟူ၍ အထင်အရှား ထွန်းကားပေါ်ပေါက်လာပေသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀၄)

ဘုန်းတော်ကြီး ဦးသီလ တောထွက်ပုံနှင့် စပ်လျဉ်း၍ ဆက်နွယ်သော အကြောင်းတရားကို ဤသို့ လေ့လာတွေ့ရှိရပါသည်။

## ရွှေကျင်ဆရာတော်ဘုရား၏ လမ်းညွှန်မှု

ညောင်လေးပင်ဆရာတော် ရေးတော်မူသော ဘုန်းတော်ကြီး ဦးသီလ အတ္ထုပ္ပတ္တိတွင် ပဲခူးနယ်၌ တောဂိုဏ်း စတည်ဖြစ်ပေါ်လာပုံနှင့် ဂိုဏ်းချုပ်ဆရာတော် ဘုန်းကြီးပုံ စသည်တို့ ပဗ္ဗာဇနိယကမ်ပြုခံကာ ကျောင်းကန်နှင့် ရွာကိုပါ စွန့်ခွာ၍ တောထွက်တော်မူကြသည်ကို အကျယ်တဝင့် ထိုထို ဆရာတော်များထံမှ ကြားသိရမျှ ဖော်ပြထားပေသည်။ ဘုန်းကြီးပုံစသော ဆရာတော်များ အပြုခံကြသော ပဗ္ဗာဇနိယကမ်သည် ရွှေကျင်ဆရာတော်ဘုရား၏ နည်းလမ်းညွှန်ပြချက်ပင် ဖြစ်လိမ့်မည်ဟု ယူဆရသည်။ ဘုန်းတော်ကြီး ဦးသီလသည် ၈ ဝါခန့်က စစ်ကိုင်း၊ မန္တလေးသို့ ရောက်သည်ကိုလည်း ဘုန်းတော်ကြီး ဦးသီလ အတ္ထုပ္ပတ္တိကပင် ထောက်ခံလျက် ရှိပေသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀၄)

ဘုန်းတော်ကြီး ဦးသီလနှင့်တကွ ဂိုဏ်းအုပ်ဆရာတော်ကြီးဦးပုံတို့ တောထွက်ပုံ တောဂိုဏ်း



ထူတောင်ပုံတို့ကို လေ့လာတွေ့ရှိရသဖြင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်ကို ကြည်ညိုရပြန်ပါသည်။

## ဘုန်းကြီးဦးပုံ ဦးသီလတို့ တောထွက်ခြင်း

၁၈၆၄ သက္ကရာဇ် ၁၂၂၆ ခုနှစ်တွင် ပဲခူးမြို့၌ ဂိုဏ်းအုပ်ဆရာတော်ကြီးဦးပုံသည် မိမိကျောင်းတိုက်ကြီးကိုစွန့်ခွာကာ တောထွက်တော်မူသည်။ ထိုအခါမှစ၍ တောဂိုဏ်း၊ ရွာဂိုဏ်း၊ တစ်နည်း အရညဝါသီ ဂါမဝါသီဟု နှစ်ဂိုဏ်းဖြစ်ပေါ်လာလေသည်။ ဤသို့ တောဂိုဏ်းဖြစ်အောင် ဘုန်းကြီးဦးဝဏ္ဏသည် သုံးနှစ်တိုင်တိုင် လှုံ့ဆော်သည်။ ထိုအခါ ဘုန်းတော်ကြီးဦးသီလသည်လည်း လှုံ့ဆော်ရာ၌ပါဝင်သည်။ ဘုန်းကြီးပုံသည် သပိတ်ကို ကိုယ်တော်တိုင်လွယ်ကူလေ၏။ ထိုနောက် ဘုန်းကြီးဝဏ္ဏနှင့် ဘုန်းကြီး ဦးသီလတို့ကိုလည်း နောက်ပါပြု၍ ရှေးဦးစွာ ကလျာဏီတောရကျောင်းသို့ ကြွသွားတော်မူလေ၏။ ထိုအခါ၌ ဘုန်းတော်ကြီး ဦးသီလသည် (၁၃)ဝါ ရရှိလေပြီ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ ကမာစဲ ဦးကဝိန္ဒ၊ စာ ၁၀၆)

ဘုန်းတော်ကြီး ဦးသီလ တောထွက်စဉ်အခါက ပဲခူးတစ်ဝိုက်၏ အခြေအနေကိုလည်း ဤသို့ ဖတ်ရှုရပါသည်။

## ဆင်နေကျားအောင်း ချုံနွယ်ပေါင်းနှင့် တောကြီး

၁၈၆၅ သက္ကရာဇ် ၁၂၂၇ ခုနှစ် ဝါတွင်း၌ ဘုန်းကြီးပုံသည် ကလျာဏီကျောင်းတိုက်တောင်ဘက်တွင် ကပ်လျက်ရှိသော သစ်စေးပင်လေးတိုင်စင် ကျောင်းငယ်၌ သီတင်းသုံးသည်။ ဘုန်းတော်ကြီး ဦးသီလသည်လည်း ထိုကျောင်းတိုက်သို့ အတူလိုက်၍ မနီးမဝေး အနောက်ဘက် ကျောင်းငယ်တစ်ခု၌ သီတင်းသုံးလေသည်။ တောအရုဏ်ကိုကား ကလျာဏီကျောင်းတိုက်အတွင်း၌သာယူကြ၏။ ဝါကျွတ်လတ်သော် ပဲခူးမြို့အရှေ့ ဟသာကုန်းသို့ ရွှေ့ပြောင်း၍ တောကျောင်း၌ အမြဲနေခြင်းဖြင့်နေတော်မူသည်။ ဘုန်းတော်ကြီး ဦးသီလသည်လည်း အတူလိုက်၍ ဟသာကုန်း၌ ၁၂၂၈ ခုနှစ်တွင် အတူဝါကပ်လေသည်။ ထိုစဉ်အခါ ဟသာကုန်းနေရာသည် ဆင်နေကျားအောင်း ချုံနွယ်ပေါင်းထူလှ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ ပဲခူး ကလျာဏီဆရာတော် စာ ၁၀၆)

ရွှေကျင်ဆရာတော်ကြီး၏ ဩဝါဒနည်းနိဿယကြောင့် မြန်မာနိုင်ငံတော်အောက်ပိုင်းတွင် တောဂိုဏ်းဖြစ်ပေါ်လာခဲ့သည်ဟု သိရှိရပါသည်။

**မန္တလေးသို့ ရောက်ခဲ့ပြီး ရွှေကျင်ဆရာတော်၏ ဩဝါဒ နည်းနိဿယကို ရရှိခဲ့သော ဘုန်းတော်ကြီးဦးသီလ လှုံ့ဆော်မှုကြောင့် ပဗ္ဗာဇနီယ တောရဂိုဏ်း စတည်ပေါ်ပေါက်လာခြင်းဖြစ်ရာ မြန်မာနိုင်ငံတော်အောက်ပိုင်း၌ အထူးသဖြင့် ပဲခူး၊ တောင်ငူ၊ ရန်ကုန်စသော မြို့နယ်တို့၌ တောဂိုဏ်းဖြစ်ထွန်းလာခြင်းသည်လည်း ရွှေကျင်ဆရာတော်ဘုရားကြီးသည်ပင် မူလဘာဝ အမှန်အစဖြစ်သည်ဟု ဆိုရပေမည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၀၆)



၁၈၉၃ သက္ကရာဇ် ၁၂၅၅ ခုနှစ် ပဲခူးမြို့၌ ရွှေကျင်ဆရာတော်ဘုရားနှင့် ဘုန်းတော်ကြီးဦးသီလတို့ တစ်ဖန်တွေ့ဆုံတော်မူကြသောအခါ၌လည်း ထပ်မံ ဆွေးနွေးစိစစ်ကြပြန်သောကာလ အယူသီလတူမျှ၍ သန့်ရှင်းကြသည်ချည်းဖြစ်သောကြောင့် ရွှေကျင်ဂိုဏ်းနှင့်တောရဂိုဏ်းသည် တစ်ဂိုဏ်းတည်းအဖြစ်ဖြင့် ဆက်ဆံပေါင်းမိကြခြင်းဖြစ်ပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၀၆-၁၀၇)

၁၈၉၃ မန္တလေးမြို့ ရွှေကျင်ဆရာတော်ကြီးသည် ၁၂၅၅ ခုနှစ်တွင် နောက်ပါသံဃာများနှင့် ပဲခူးမြို့သို့ကြွရောက်တော်မူလာ၏။ ထိုအခါတွင် ပဲခူးတောရ သံဃာများနှင့် တွေ့ဆုံနှီးနှော၍ အစေ့အစပ်ဖြစ်လေ၏။ ပဲခူး၊ ရွှေကျင်၊ ဝမ်းပတော၊ ကျိုက်ထို၊ သထုံ၊ မော်လမြိုင်စသော မြို့နယ်တို့၌ ပြန့်နှံ့လျက်ရှိသော အောက်ပြည်တောဂိုဏ်းသည်လည်းကောင်း၊ အထက်ပြည်၌ နှံ့လျက်တည်ရှိသော ရွှေကျင် ဂိုဏ်းသည်လည်းကောင်း ရည်ရွယ်ချက်ဆန္ဒချင်း တူမျှကြ၏။ ဝိနည်းကို ပဓာနထား၍ သီးသန့်ခြင်း ဂိုဏ်းတစ်ပါးနှင့် အဆက်အဆံ မရှိခြင်းအားဖြင့် အယူသီလ တူမျှသောကြောင့် ဂင်္ဂါရေ ယမုံနာရေ ရောသကဲ့သို့ တစ်သဘောတည်း ရောနှောဆက်ဆံမိကြလေ၏။ ရွှေကျင်ဂိုဏ်း အောက်ပြည်နှံ့ အထက်ပြည်နှံ့ ဖြစ်လေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ မော်လမြိုင် နတ်ရေတွင်း ဆရာတော်၊ ဦးအရိန္ဒမ၊ စာ ၁၀၇)

ရွှေကျင်ဆရာတော်ဘုရားကြီးသည် ဒုရဉ္စဝါသီဝလေ့ တောရကျောင်းကိုသာမှီ၍ အားထုတ်ခဲ့ပုံတို့မှာလည်း ကြည်ညိုဖွယ်ရာဖြစ်ပါသည်။

ရွှေကျင်ဆရာတော်ဘုရားကြီးသည် အရညဝါသီဝလေ့ တောရကျောင်းများကိုသာမှီ၍ ရဟန်းတရားကို ပွားများအားထုတ်မှုဖြင့် ကာလကို များများကုန်လွန်စေရာ ရွှေကျင်ဆရာတော်ဘုရားကြီးကိုအမှီပြု၍ ဩဝါဒကို ခံယူကာ မြို့တော်၌ရှိနေကြကုန်သော တပည့်တပန်း ရဟန်းသံဃာတို့သည် ဆရာနှင့်ဝေး၍ အားသေးစိတ်ငယ်သကဲ့သို့ ရှိကြသဖြင့် ရွှေကျင်ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ကျောက်ထီးတမူ အရေးယူကာ ရှိသေလေးစားအပ်သော မဟာဗိုလ်ဆရာတော်ဘုရားကြီးက သာသနာတော်နှင့် တပည့်သံဃာတို့ကို ငဲ့ညှာ၍ အားနည်းနေသောသာသနာကို အားပေးပြုစုရန် မြို့တော်သို့ ပြန်ခဲ့စေလိုကြောင်းဖြင့် မှာကြားမိန့်ခေါ်တော်မူလေသည်။ ယင်းသို့ မိန့်ခေါ်တော်မူရာတွင် မဟာဗိုလ်ဆရာတော်ဘုရားကြီးထံသို့ ပြန်ကြားလျှောက်ထားသော လျှောက်စာကို ဂန္ဓာရော စနကထာဟု ကမ္ပည်းတပ်၍ ရေးသားဆက်ကပ်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၃၉)

ရှိမ်းမကားရွာတွင် ရွှေကျင်ဆရာတော်ဘုရားကြီး တရားအားထုတ်စဉ်က ကာလကိုလည်း အောက်ပါအတိုင်းတွေ့ရှိရပါသည်။

ထိုဂန္ဓာရောစနကထာ၌ ယခုအခါ တပည့်ရွှေကျင်မှာ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာစွာ အထိုက်အလျောက် သပ္ပါယဖြစ်သောနေရာကို ရရှိနေပါသည်။ ရှိမ်းမကား ရွာတောင်သရက်ချောင်တောရ၌ နေစဉ်ကပင် ပြည့်ရှင်မင်းသည် အကြိမ်ကြိမ် အတန်တန် အလှည့်အလည်နှင့် မင်းချင်းယောကျ်ားတို့ကို စေလွှတ်ပင့်ခေါ်စေသည်သာမက



မောက်ကျိုးဆရာတော်ကြီးကိုယ်တိုင် ရှိမ်းမကားအရောက် ကြွလာတော်မူ၍ ပင့်ခေါ်စေပါသည်။ ထိုအခါကမူကား မိအိုဘအိုတို့ကို ငဲ့၍သာ စိတ်ဆန္ဒ မထက် သန်လှဘဲနှင့် ပင် မြို့တော်သို့ရောက်ခဲ့ရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၃၉ - ၁၄၀)

ရွှေကျင်ဆရာတော်ဘုရားကြီးသည် တောအရသာကို အောက်ပါအတိုင်း တင်ပြခဲ့ပါသည်။

## တောရကျောင်းတွင်သာ ပျော်မွေ့ပုံ

တောအရသာကို ရတန်သလောက် တွေ့ကြုံရရှိနေပါသဖြင့် တပည့်ရွှေကျင်မြို့တော်သို့ မရောက်မူကို ခွင့်ပြုတော်မူ၍ အရှင်ဆရာတော်ဘုရားကြီးသည်သာ မြို့တော်၌ တပည့်သံဃာများကို စောင့်ရှောက်ချီးမြှောက်တော်မူရန် လျှောက်ထားသဖြင့် သင်္ဂဇာဆရာတော် စသော ဆရာတော်ဘုရားများလည်း ခရီးဝေးကြွတော်မမူကြဘဲ အားနည်းနေသော သာသနာတော်ကို အားတက်အင်ကြွ စောင့်ရှောက်တော်မူကြပါဘုရားဟု လျှောက်ထားကာ တောရကျောင်း၌ပင် သီတင်းသုံးမြဲသုံးလျက် နေတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၄၀)

ရွှေကျင်ဆရာတော်ဘုရားကြီး တောရကျောင်းတွင် သီတင်းသုံးစဉ်အခါက မြို့နေတပည့်အပေါင်းတို့အတွက် ဩဝါဒကထာများ ရေးသားချီးမြှင့်ပုံကိုလည်း ဤသို့ လေ့လာတွေ့ရှိရပါသည်။

## တောရကျောင်းမှ ရွှေမြို့တော်သို့ အမှာစာ

ရွှေကျင်ဆရာတော်ဘုရားကြီးသည် တောရကျောင်းများ၌ သီတင်းသုံးလျက်ပင် ရံခါရံခါ တပည့်သံဃာများအား စာဖြင့်ရေးသား ဩဝါဒပေးတော်မူသည်။ ရံခါဒါယကာများ ကျင့်သုံးလိုက်နာကြရန် သတိသံဝေဂရကြစေရန် ဩဝါဒကထာများကို ရေးသားချီးမြှောက်တော်မူသည်။ ရံခါရံခါ မင်းတရားကြီးထံသို့လည်း အထူးထူးသော ဩဝါဒကထာတို့ဖြင့် ဆုံးမဩဝါဒပေးတော်မူလေ့ရှိသည်။ မြို့တော်၌ သီတင်းသုံးနေတော်မူစဉ်ကမူကား ကိုယ်တော်တိုင် ဆုံးမဩဝါဒပေးတော်မူကြောင်းကို နောက်ကဖော်ပြခဲ့ပေပြီ။ ဂရုာရောစနကထာနှင့် မရှေးမနှောင်းပင် ခတ္တိယောဝါဒကထာ ဟူ၍ ရေးသားဆုံးမတော်မူခဲ့ပေသေးသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၄၀)

ရွှေကျင်ဆရာတော်ဘုရားကြီး၏ ပုံပန်းသဏ္ဌာန်တော်ကို အောက်ပါအတိုင်း မှတ်တမ်းတွင် ဖတ်ရှုရပါသည်။

## ရုပ်ပုံလွှာတော်

ရွှေကျင်ဆရာတော်ဘုရားကြီး၏ ရုပ်ပုံတော်မှာ မပိန်လွန်း မဝလွန်း အရပ်တော်မြင့်မြင့် ထောင်ထောင်မောင်းမောင်းရှိတော်မူသည်။ ဦးခေါင်းတော် ပြေပြစ်၍ ဖွံ့ဖြိုးတော်မူသည်။ နဖူးတော်ကျယ်ပြန့်သည်။ နှာတံပေါ်သည်၊ အသံဝါ ဖြစ်၍ခံ့ညားသည်။ သာယာသော အသံတော်ရှိသည်။ ဩဇာရှိသော အသံမျိုးဖြစ်သည်။ နားရွက်တော်



ကျယ်ပြန့်သည်။ အသားတော်မှာအသားလတ်ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၄၈)

ရွှေကျင်ဆရာတော်ဘုရားသည် တောရကျောင်းတွင် သီတင်းသုံးတော်မူစဉ် သစ်ပင်ဝါးပင်တို့အောက်၌ ဧကစာရီ သီတင်းသုံးတော်မူကြောင်း အောက်ပါအတိုင်းသိရပါသည်။

## သစ်ပင် ဝါးပင်အောက်၌သာလျှင် ဧကစာရီ

ရွှေကျင်ဆရာတော်ဘုရားကြီးသည် တောရကျောင်း၌ သီတင်းသုံးနေတော်မူရာတွင်လည်း များသောအားဖြင့် သစ်ပင်ဝါးပင်အောက်၌သာလျှင် ဧကစာရီ သီတင်းသုံးတော်မူလေ့ရှိသည်။ သစ်ပင်ရင်း၌ ကျောင်းကလေးဖြင့်လည်း သီတင်းသုံးတော်မူတတ်သည်။ အနီးအဝေး အရပ်ဒေသတို့မှ ဖူးမြော်ရန် တရားပေစာ နာယူကြရန် လာကြသော ပရိသတ်တို့သည် ဝေးဝေးလှမ်းလှမ်းကပင် ဖိနပ်ချွတ် ထီးရုပ်၍ တိတ်ဆိတ်ငြိမ်သက်စွာလာကြရသည်။ ဖြီးလိမ်းပြုပြင်ခဲ့ကြသော မာတုဂါမတို့သည်လည်း ဖြီးလိမ်းပြုပြင်မှုကိုဖျက်၍ ပကတိအနေဖြင့်သာ အဖူးအမြော်လာကြသည်ကို သိရသည်။ ဘယ်သူကမှ ကြိုတင်မပြောသော်လည်း ကြီးမားသော သမာဓိအရှိန် သီလဂုဏ်ရောင်တို့ကြောင့် အလိုအလျောက် ကြောက်ရွံ့လေးစားကြပေသည်။ အရိပ်ဝါးရိပ်အောက်၌သာလျှင် တရားစကား ဟောပြောတော်မူလေ့ရှိသည်ဟု ရွှေကျင်ငါးတိုက်အဝင် ထရံကာတိုက်သားအဖြစ်ဖြင့် နေခဲ့ဖူးသော စစ်ကိုင်းတောင်ရိုး ကြံခင်းချောင်ဆရာတော်ဘုရားကြီးထံမှ ကြားသိမှတ်သားရသည်။ ကြံခင်းချောင် ဆရာတော်ဘုရားကြီးကား သက်တော် ၈၆ နှစ်၌ ပျံလွန်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၄၉)

## ကိုယ်တော်၏ နှလုံးသား

ရွှေကျင်ဆရာတော်ဘုရားကြီးသည် နောက်က ရေးသားခဲ့သည့်အတိုင်း ဟောပြောဆုံးမရာ စကားပြောတော်မူရာ စာပေရေးသားတော်မူရာတို့၌ အစောင်းအချိတ် အဖိအနှိပ်မရှိ၊ ရန်မပြု ရန်မထောင်ဟူ၍ မေတ္တာကရုဏာတော်ဖြင့် တရားလမ်း ဖြောင့်ဖြောင့်သာ ဟောတော်မူလေ့ရှိသည်။ အတိုအထွာ သံပေါက်လင်္ကာကလေးများဖြင့် ဆုံးမဩဝါဒပေးသောသဘောဖြင့် ရေးသားတော်မူခဲ့သည်မှာလည်း မနည်းလှပေ။ ပင်ကိုစိတ်ရင်း ရှိတော်မူသည်အလျောက်ပင် ယင်းဆုံးမစာကလေးတို့၌ "ရန်မလိုမှရန်ငြိသည်၊ ရန်လို ရန်ပိုတတ်လှသည်၊ ရန်မထောင်မှ ရန်အောင်သည်၊ ရန်ထောင် ရန်လှောင်မိတတ်သည်" စသည်ဖြင့်လည်းကောင်း၊ ဆရာကခင်၊ ကိုယ်ကမင်၊ နေလို့ပျော်ရွှင်ရှိစေသော်ဟူ၍ ကိုယ်စိတ်ချမ်းသာစွာ ဆက်ဆံနေနိုင်ကြဖို့ အရေးကိုသာ ပြောဟောဆုံးမလေ့ရှိ၍ ကိုယ်တော်တိုင်ကလည်း နှလုံးသွင်းဆင်ခြင်တော်မူလေ့ရှိသဖြင့် အရာရာ၌ ချောမောပြေပြစ်သည်သာများလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅၀)

ရွှေကျင်ဆရာတော်ဘုရားကြီးနှင့်စပ်လျဉ်း၍ သက်တော်ရှည် ရွှေဟင်္သာဆရာတော်ကြီး ဦးအရှင်ပဏ္ဍိတသိရီထေရ်က အောက်ပါအတိုင်းမှတ်တမ်းတင်ခဲ့ပါသည်။

## အာသဝေါကုန်ခြင်းနှင့် နီးကပ်သော ဆရာတော်ကြီး



ရွှေကျင်ဆရာတော်ဘုရားကြီးမှာကား တစ်ပါးသူ၏အပြစ်ကို ကဲ့ရဲ့ပြစ်တင်လိုသော မနသိကာရဖြင့် ရှုကြည့်တော်မူလေ့မရှိ။ ပြစ်တင်လေ့ရှိတော်မမူသဖြင့်လည်း ရွှေကျင်ဆရာတော်ဘုရားကြီး သန္တာန်တော်၌ အာသဝေါတရားများ ခေါင်းပါးအားသေးကာ အာသဝေါကုန်ခြင်းနှင့် နီးကပ်သော ဆရာတော်ဟူ၍ ဆိုအပ်လှပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ ၁၅၀)

ရွှေကျင်ဆရာတော်ဘုရားကြီး ရေးသားတော်မူခဲ့သော ကျမ်းစာများမှာ -

၁။ နေတ္တိလီနတ္ထသင်္ဂဟ။
၂။ နေတ္တိဟာရဝိဘာဝနီ။
၃။ ရူပဘေဒတိဘာဝနီ။
၄။ ဂဏဘေဒဒီပနီ။
၅။ နိဿယလက်ာရဝိနိစ္ဆယ။
၆။ သီမာလင်္ကာရဝိနိစ္ဆယ။
၇။ ဒသဓမ္မာလင်္ကာရအဋ္ဌကထာ။
၈။ သီလဝိသောဓနီ သာသနဝိသောဓနီ။
၉။ ပဋိစ္စသမုပ္ပါဒဒီပနီ။
၁၀။ ဗောဇ္ဈင်္ဂဒီပနီ။
၁၁။ ဝဍ္ဎနာဒီပနီ။
၁၂။ ဝိနယဂရုဓဒီပနီ
၁၃။ ဓမ္မာသဒေီပနီ။
၁၄။ ဩဝါဒါလင်္ကာရကထာ။
၁၅။ ဓမ္မခတ္တိယောဝါဒ။
၁၆။ ကေဝဋ္ဋောဝါဒ။
၁၇။ သီဟဋ္ဋောဝါဒ။
၁၈။ သန္ဒေသကထာ။
၁၉။ လင်္ကာသာသနာသုဒ္ဓိကထာ။
၂၀။ ဥပဒေသကထာ။
၂၁။ ဥပဒေသကထာ။
၂၂။ ယွာဋီကာ။
၂၃။ မဟာသိဿကောဝါဒ။
၂၄။ စူဠသိဿကောဝါဒ။
၂၅။ ဂမ္ဘီရာ ဂမ္ဘီရ မဟာ နိဗ္ဗုတဒီပနီ။
၂၆။ ဝိဝိတြဝဏ္ဏနာ။
၂၇။ သမာသဂဏ္ဌိ။
၂၈။ ဒါရုခန္ဓသုတ်နိဿျ။
၂၉။ အဋ္ဌကကမ္မဋ္ဌာန်း။

စသည်တို့ဖြစ်ကုန်၏။

## အရညဝါသီ

၁၈၇၅ ရွှေကျင်ဆရာတော်ဘုရားကြီးသည် အေဒီ ၁၈၇၅ (၁၂၃၇ ခုနှစ်)မှစ၍ ကိန္နရာတောင် စေဦကိုင်တောရ ကုက္ကိုချောင်တောရ နွားလန်တောင်တောရ စသည်တို့သို့ ကြွရောက်၍ အရညဝါသီအဖြစ်ဖြင့် သီတင်းသုံးတော်မူကာ ပဋိပတ်သာသနာကို အားထုတ်ဆောင်ရွက်တော်မူသည်။

၁၈၈၄ သီပေါမင်းတရားပင့်လျှောက်၍ မလွှဲမရှောင်သာသဖြင့် မန္တလေးမြို့တော်သို့ ပြန်လည်ကြွရောက်ရသော်လည်း သက်တော် ၆၄ နှစ်၊ အေဒီ ၁၈၈၄ (သက္ကရာဇ် ၁၂၄၆ ခုနှစ်)၌ တစ်ဖန် မင်းကွန်းငွေတောင်တောရသို့ ကြွရောက်သီတင်းသုံးတော်မူသည်။



မင်းကွန်းဌေးတောင်တောရကျောင်း၌ သီတင်းသုံးတော်မူစဉ် ပဲခူးစသော အောက်မြန်မာနိုင်ငံတော်သို့ ကြွရောက်၍ သာသနာပြုတော်မူသေးသည်။ ပဲခူးတောရဂိုဏ်းနှင့် ရွှေကျင်ဂိုဏ်းသည် ဤအခါ၌ အထင်အရှား ဆက်ဆံပူးပေါင်းမိကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅၁)

၁၈၉၄ အေဒီ ၁၈၉၄ခု၊ မတ်လ ၂၇ ရက်၊ အင်္ဂါနေ့ (သက္ကရာဇ် ၁၂၅၅ ခု တပေါင်းလပြည့်ကျော် ၇ ရက် ညဥ့် မြန်မာ ၂ ချက်တီးကျော်) လဝန်းပေါ်ချိန်တွင် မင်းကွန်းဌေးတောင်တောရ၌ပင် စုတိကမ္မဇရုပ် ချုပ်တော်မူသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅၁)

၁၈၉၄ အေဒီ ၁၈၉၄ ခု၊ ဇွန်လ (၁၂၅၆ ခုနှစ် နယုန်လ)အတွင်း၌ ဈာပနကိစ္စကို ဆောင်ရွက်ကြရန်ဖြစ်သော်လည်း မန္တလေးတပည့် ဒကာများကလည်း မန္တလေးသို့ ပင့်ဆောင်၍ ကြီးကျယ်ခမ်းနားစွာ သင်္ဂြိုဟ်ပူဇော်လိုကြသည်။ မင်းကွန်း တပည့်ဒကာတို့ကလည်း မင်းကွန်း၌ပင် တခမ်းတနားပူဇော်လိုကြသည်။

## ရုပ်ကလာပ်တော်ကို ၈ လ ကြာအောင် ပူဇော်ခဲ့ခြင်း အံ့ဖွယ်

၁၈၉၅ သဘောချင်းမညီ ဖြစ်နေကြသောကြောင့် (၈)လ လွန်၍ အေဒီ ၁၈၉၅ ခု၊ ဖေဖော်ဝါရီလ ၆ ရက်၊ (၁၂၅၆ ခုနှစ် တပို့တွဲလဆန်း ၁၃ ရက်) ဗုဒ္ဓဟူးနေ့ မင်းကွန်း၌ပင်လျှင် အပြီးသတ် ဈာပနကိစ္စကို ပြီးစီးအောင်ဆောင်ရွက်ကြရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅၄)

## အရိုးတော်ဓာတ်ကို စေတီတည်တော်မူခြင်း

မီးသင်္ဂြိုဟ်ပြီးနောက် ဆရာတော်ဘုရားကြီး၏ အရိုးတော်ကို မင်းကွန်းနှင့် မန္တလေး ခွဲဝေရယူကြပြီးလျှင် မင်းကွန်းဌေးတောင်တောရ၌ အရိုးအိုးစေတီတစ်ဆူ၊ မန္တလေး မဟာမဓိကာရာမ ရွှေကျင်တိုက်မကြီးအတွင်း၌ အရိုးအိုးစေတီတစ်ဆူ၊ တည်ထားပူဇော်ကြလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅၅)

## ရွှေကျင်ဂိုဏ်း ပြန့်ပွားစည်ပင်လာခြင်း

ရွှေကျင်ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်ကပင် နှစ်ရပ်သော သာသနာကို ဆောင်ရွက်တော်မူလေကြသော တပည့်ကြီးများသည်ပင် ၃၆ ပါးရှိ၍ တိုက်သား သံဃာတို့မှာ အထောင်မကရှိကြသည်။ အဆိုပါ ၃၆ ပါးသော မထေရ်မြတ်တို့ဟူသည်မှာ -

၁။ မဟာဝိသုဒ္ဓါရာမဆရာတော်၊ အရှေ့ပြင် မဟာဝိသုဒ္ဓါရာမတိုက် ဒါယိကာမ ဆင်ဖြူမရှင် မိဖုရားကြီး ကိုးကွယ်သော ဆရာတော်။

၂။ မဟာသုမနထေရ် (မတ္တရာဆရာတော်)။ မတ္တရာဝန်မင်း ကိုးကွယ်သော မတ္တရာ တောရဆရာတော်။

၃။ မဟာဉာဏဝံသထေရ်။ အရှေ့မှန်ကျောင်းဆရာတော်၊ ဒုတိယနန်းစံ သီပေါဘုရင် ကိုးကွယ်သောဆရာတော်။



၄။ အရှင်ဣန္ဒထေရ်။ ရွှေဘိုမြောက် ဘုတ်အိုးရွာ၌ ထင်ရှားသောဆရာတော်။
၅။ အရှင်ဣန္ဒကထေရ် ဒုတိယ ထရံကာတိုက်ဆရာတော်၊ ၁၂၄၇ ခုနှစ်၌ လူ့ဘောင်သို့ရောက်သည်။ သရိုင်ဇာတိဖြစ်၍ သရိုင်ဆရာကြီးဟုတွင်သည်။
၆။ အရှင်ဝိမလထေရ်။ သုံးဆယ်မြို့ မောင်းထောင်တိုက် နာယကဆရာတော်၊ ထိုနောက် ပုသိမ်မောင်းထောင်တိုက်ကိုလည်း အုပ်ချုပ်တော်မူရသည်။
၇။ အရှင်သာသနထေရ်။ ရန်ကုန်မြို့ ကျောင်းတော်ရာ ရွှေကျင်တိုက် ဆရာတော်။
၈။ အရှင်အရိယဝံသ။ တတိယ ထရံကာတိုက်ဆရာတော်၊ရွှေဘိုနယ်သနမောက်ကျိုး၌ သီတင်းသုံးသည်။
၉။ အရှင်ပညာ ။ ဒီပဲယင်းမြို့ မြို့သာဆရာတော်၊ အဘိဓမ္မာညဝါ နိုင်နင်းတော်မူသော ဆရာတော်။
၁၀။ အရှင်ဂန္ဓမာ ။ ဟံသာတမြို့ မိုးကောင်းတိုက် ဆရာတော်၊ ထက်မြက်ထင်ရှားသော ဆရာတော်။
၁၁။ အရှင်အာစာရ။ အလုံ ဝါးတောမ ဇာတိ၊ ဘီလူးကျွန်း ဂိုဏ်းအုပ် ဆရာတော်။
၁၂။ အရှင်ဝရ ။ မြင်းခြံ တောင်သာ ဇာတိ၊ ပဝတ္တိ နှဲကြိုးဆရာတော်၊ နောက် လူ့ဘောင် ပြောင်းသည်။
၁၃။ အရှင်သောမ ။ အရာတော်ဇာတိ၊ ကျိုက်လတ်ဆရာတော်။
၁၄။ အရှင် ဇဝန ။ အလုံ မင်းရွာ ကျောက်အိုင်တောရဆရာတော်
၁၅။ အရှင်မာလာ ။ အလုံမြောက် ရဲထွတ်ဆရာတော်။
၁၆။ အရှင် ရေဝတ ။ ရွှေဘိုတောင် သခွတ်တော ဆရာတော်၊ သုံးဆယ်မင်းသားကြီး၏ ဆရာဖြစ်သည်။ သုံးဆယ်မိဖုရား သားသမီးတို့ ကိုးကွယ်သည်။
၁၇။ အရှင်ဥေယျ ။ အင်းဝ ဆီသည်ရွာဇာတိ၊ ဆံမြိတ်ခုံတောရ ဆရာတော်။
၁၈။ အရှင်ကဝိန္ဒ ။ မန္တလေးမြို့ မောက်ကျိုးတိုက် ဆရာတော်၊ ရွှေဘိုမောက်ကျိုးဇာတိ ဖြစ်သည်။
၁၉။ အရှင် အာစိဏ္ဏ၊ ရွှေဘိုဇာတိ၊ မော်လမြိုင် ဆရာတော် အဖြစ်ဖြင့် ထင်ရှားသည်။
၂၀။ အရှင်သုမင်္ဂလ၊ ရွှေဘိုဇာတိ၊ ရွှေဘိုနယ်၌ ထင်ရှားသော ဆရာတော်။
၂၁။ အရှင်သီရီ။ ရွှေဘို ရွှေကျင်ရွာ ဇာတိဆရာတော်။
၂၂။ အရှင်ယသ ။ ပန်းချီဆားလင်းဇာတိ၊ ဝိနည်းအရာ၌ ကျွမ်းကျင်လိမ္မာတော် မူသော ဆရာတော်။
၂၃။ အရှင်တိက္ခ ။ အရှင်ယသ၏ ညီတော်၊ ထိုအရှင်လည်း ထင်ရှားကျော်စောသော ဆရာတော်ပင်တည်း။
၂၄။ အရှင်ဇိန ။ နှဲကြိုးဆရာတော်၊ စာရေးကောင်းလှသည်။ သံဃာ့နယ်ပယ်၌ ထင်ရှားကျော်ကြားသော ဝဇ္ဇဗောဒနီ တရားစာ အစောင်စောင်ကို ရေးတော်မူသောဆရာတော်။
၂၅။ အရှင်ဥတ္တမ။ ပဌမ ကျိုက္ကစံဆရာတော် (မြန်မာနိုင်ငံတော် အောက်ပိုင်းဆိုင်ရာ ရွှေကျင်နိကာယ သာသနာပိုင်ဆရာတော်)
၂၆။ အရှင်ဇိန ။ ကျမ်းတတ်ဆရာတော်တစ်ပါးဖြစ်သည်။
၂၇။ အရှင်ဝိနယ ။ ပင်းတလဲဆရာတော်။
၂၈။ အရှင်ပဒုမ ။ ပန်းချီ ဇာတိ၊ လယ်တီဆရာတော်ဟုတွင်သည်။



၂၉။ အရှင်ဉာဏဝံသ။ ပုသိမ်မြို့ စာချဆရာတော်။

၃၀။ အရှင်ဇောတ။ ဗန်းမော် ဂိုဏ်းအုပ်ဆရာတော်၊ ဗန်းမော် ဝန်မင်း ဆရာဖြစ်သည်။

၃၁။ အရှင်ဥက္ကံသ။ ပုသိမ်ဇာတိဖြစ်သည်။

၃၂။ အရှင်ဉာဏဝံသ။ ပုသိမ်ဇာတိဖြစ်သည်။

၃၃။ အရှင်ကွန္တ ။ မန္တလေးမြောက် ဆင်ရွာဇာတိ။

၃၄။ အရှင်ခန္တိ။ မန္တလေးမြို့ဇာတိ၊ ပထမ စာချဘွဲ့ရဆရာတော်။ (နောင်အခါ စစ်ကိုင်းတောင်သို့ တောထွက်တော်မူသည်။)

၃၅။ အရှင်ဇဝနပုဒ္ဒိ ။ ကသာဇာတိ၊ ကွမ်းခြံကုန်း၊ သုံးခွ မဟာဝုန်တောရ ဆရာတော်အဖြစ် ထင်ရှားတော်မူသည်။

၃၆။ အရှင်ဂန္ဓမာ ။ ကျောက်မြောင်းဇာတိ၊ ကလေးဆရာတော်။ (ရွှေကျင်ဆရာတော် ပျံလွန်တော်မူပြီးနောက် ရွှေကျင်တိုက်၌ စတုတ္ထမြောက် သီတင်းသုံးအုပ်ချုပ်တော်မူ၍ စတုတ္ထရွှေကျင် ဆရာတော်ဟု ထင်ရှားသည်။)

ရွှေကျင်ဆရာတော်ဘုရား၏ လက်ရင်း အန္တေဝါသိက သဒ္ဓိဝိဟာရိက တပည့်ကြီးများဖြစ်သော ဤဆရာတော် ၃၆ ပါးတို့သည် မြန်မာနိုင်ငံတော် ထက်အောက် အနံ့အပြား ထိုထိုဒေသတို့၌ သီတင်းသုံးတော်မူ၍ ဓူရနှစ်ပါးကို ရွက်ဆောင်တော်မူကြသည် ဖြစ်၍ ရွှေကျင်ဆရာတော်ဘုရားကြီး၏ အဆုံးအမဩဝါဒသာသနာတော်သည် အောက်ထက် ဝန်းကျင်အရပ်တို့၌ စည်ပင်ပြန့်ပွားလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅၆-၁၅၈)

ယနေ့တိုင် ရုပ်ကလာပ်တော် တည်ရှိနေသေးသော ရဟန္တာဆရာတော်ကြီးသုံးပါး

# ပိန္နဲကွင်းဆရာတော် ဦးကလျာဏ

အေဒီ ၁၈၂၅ – ၁၉၅၂ (၁၁၈၇ – ၁၃၁၄)





ဤစာပြုသူတို့ ငယ်စဉ်အခါက ပုသိမ်ခရိုင်၊ သာပေါင်း၊ ငပုတော တမံချောင်း ကမ်းနီစသော ဒေသတို့တွင် နေထိုင်လျက်ရှိစဉ်အခါက ဤစာပြုသူတို့ မွေးဖွားရာဇာတိဖြစ်သော အလုံဒီပါရုံ နယ်တစ်ဝိုက်တွင် တရားကျင့်ကြံသူအပေါင်းတို့ များစွာရှိသော်လည်း ဤစာပြုသူတို့ အသိငယ်ငယ် ဉာဏ်ငယ်ငယ်ဖြစ်သဖြင့် ဉာဏ်ရည်မလည်သေးသောကာလဖြစ်ရကား၊ ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်တို့ အကြောင်းကို ကောင်းစွာမမှတ်သားမိနိုင်ခဲ့ချေ။

ထိုစဉ်ကာလက ကွင်းကောက်ဆရာလှိုင်ဟူ၍ အလွန်ကျော်စောသော ပုဂ္ဂိုလ်ထူးတစ်ပါးလည်း ရှိခဲ့ဖူးပေသည်။ ဤစာပြုသူတို့ ဉာဏ်မကြွယ်ခဲ့သဖြင့် မှတ်တမ်းမှတ်ရာ ကောင်းစွာမလုပ်နိုင်ခဲ့ချေ။ ထို့ကြောင့် ဤစာပြုသူတို့ သိတတ်စအရွယ် ရောက်သောအခါ မှတ်တမ်းများ မရှာတွေ့နိုင်တော့ချေ။

ထိုစဉ်က ပိန္နဲကွင်းတွင်ရှိသော ကပ္ပိုတောရကျောင်းတွင် ပိန္နဲကွင်းဆရာတော်များရှိခဲ့ရာ ထိုပုဂ္ဂိုလ်ကြီးများကို ရဟန္တာဟု ခေါ်ဝေါ်သမုတ်ကာ များစွာကြည်ညိုမှုရှိခဲ့ကြောင်း ရပ်သိရွာသိ မှတ်မိခဲ့ပါသည်။ ပို၍ အံ့သြစရာကောင်းသည်မှာ ဆရာစဉ်ဆက် ၃ ပါးစလုံး ခန္ဓာဝန်ချတော်မူသောအခါ ရုပ်ကလာပ်တော်တို့သည် မပုပ်မသိုးဘဲ ယခုထက်တိုင် တည်ရှိနေကြောင်းပင် ဖြစ်ပါသည်။

ရုပ်ကလာပ်တော် ယနေ့တိုင်တည်ရှိသော ဆရာတော် ၃ ပါးရှိရာ ထို ၃ ပါးစလုံးတွင် ရုပ်ကလာပ်တော် မပုပ်မသိုး ကြွင်းကျန်တော်မူနေကြောင်းသိရသည်။ ထို ၃ ပါးစလုံးမှာ တစ်ကျောင်းတည်းတွင် တည်ရှိတော်မူခဲ့ကြောင်း သိရပါသည်။ ပို၍ပို၍ အံ့သြစရာ ကောင်းလှပါပေသည်။

## ၁၉၈၉ ခုတွင် ရုပ်ကလာပ်တော် ခိုးယူခံရခြင်း

၁၉၈၉ ၁၉၈၉ ခုလောက် ကာလက သတင်းတစ်ခုကြားရသည်မှာ ရွှေချထားသော ရုပ်ကလာပ်တော်ကို သူခိုးက ခိုးယူသွားခြင်းဖြစ်ပါသည်။ ရွှေမက်၍ ခိုးခြင်းဖြစ်ကြောင်း အားလုံးက ရိပ်မိကြပါသည်။ အခိုးခံရသောနေ့မှာ ၇ ဇူလိုင် ၁၉၈၉ ခု (၁၃၅၁ ခုနှစ် ဝါဆိုလဆန်း ၅ ရက်) သောကြာနေ့ဖြစ်ကြောင်း စုံစမ်းသိရှိရပါသည်။

(ကျမ်းကိုး၊ ကဒ္ဒသူ ကပ္ပိုတောရကျောင်းမှ အံ့ဖွယ်ပုဂ္ဂိုလ်ထူး ၃ ပါး နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၁၉၉၉ ခုနှစ်၊ ဇွန်လ စာ ၆၅)

## ရွှေများခွာယူ၍ လယ်ကွင်းထဲ ရွှံ့တောထဲ ပစ်ထားခဲ့ခြင်း

ခိုးယူသွားသော ရုပ်ကလာပ်တော်မှ ရွှေများခွာယူပြီးလျှင် ရုပ်ကလာပ်တော်ကို လယ်ကွင်းထဲမှာ ပစ်ချထားခဲ့ကြောင်းသိရပါသည်။ မည်သူမှု သိပုံမရချေ။ စပါးရိတ်သိမ်းချိန်ရောက်သောအခါမှ ရုပ်ကလာပ်တော်ကြီးကို ရွှံ့ထဲနွံထဲမှာ တွေ့ကြရသည်။ ထိုအခါ အသားများမှာ ပွဲယွင်းလျက်ရှိနေလေသည်။ တွေ့ရှိသော လယ်သမားတို့၏ သတင်းပေးချက်အရ ပြန်လည်သိရှိရခြင်းဖြစ်ပါသည်။ ရုပ်ကလာပ်တော်မှာ လယ်ကွင်းထဲတွင် ရေထဲမှာနစ်မြုပ်လျက် တစ်မိုးတွင်းလုံး ရှိနေခဲ့သော်လည်း လုံးဝ ပုပ်သိုးခြင်း မဖြစ်ခဲ့ပါ။ သို့သော်လည်း မိုးဒဏ် လေဒဏ်တို့ကြောင့် အရိုးစုသာသာမျှသာ ကျန်ခဲ့ကြောင်းသိရပါသည်။

မိုက်မဲသူတို့၏ မိုက်ကန်းမှုတို့မှာ ကမ်းကုန်လျက်ရှိနေပေတော့သည်။ သို့သော်လည်း ကြည်ညိုသူတို့က ကျန်ရှိခဲ့သော ရုပ်ကလာပ်တော်အား ပလာစတာကိုင်ပြီး မူလကဲ့သို့ ပြန်လည် ဖန်တီးပြီးလျှင် တစ်ဖန်ပြန်၍ ရွှေချကာ ကိုးကွယ်ခဲ့ကြသည်မှာ ယခုထက်တိုင်ဖြစ်ပါသည်ဟု သိရပါသည်။

## ရုပ်ကလာပ်တော်ပိုင်ရှင် ပထမ ပိန္နဲကွင်းဆရာတော် ဦးကလျာဏ



၁၉၀၉ ထိုဆရာတော်ကြီးမှာ ပိန္နဲကွင်းဆရာတော် ဦးကလျာဏဖြစ်ကြောင်း သိရှိရပါသည်။ ထိုပထမဆရာတော်ကြီးဖြစ်သော ပိန္နဲကွင်းဆရာတော် ဦးကလျာဏ ခန္ဓာဝန်ချတော်မူသော နှစ်မှာ ၂၉ ဇန်နဝါရီလ ၁၉၀၉ ခု၊ (၁၂၇၀ ပြည့်နှစ် တပို့တွဲလဆန်း ၄ ရက်) သောကြာနေ့ ဖြစ်သဖြင့် နှစ်ပေါင်း ၁၀၀ နီးပါး ကြာမြင့်ခဲ့ပြီ ဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၆၅- ၆၆)

## ပထမ ပိန္နဲကွင်းဆရာတော်

ပထမဆရာတော်ကြီး ရှိစဉ်အခါက တောထဲတောင်ထဲတွင် လှည့်လည်တရားအားထုတ်စဉ် ဝတ်ကြီးဝတ်ငယ်ပြုစုလျက် လိုက်လံလှည့်လည်၍ တပည့်ကြီးအဖြစ် အမွေခံကာ နေခဲ့သော ဦးပဥ္စင်းတစ်ပါးရှိသည်။ ထိုဦးပဥ္စင်းမှာ ဦးဝါယမ ဘွဲ့တော်ရှိကြောင်း သိရသည်။ ပထမဆရာတော် ခန္ဓာဝန်စွန့်သောအခါ ရုပ်ကလာပ်တော်သည် မပုပ်မသိုးခဲ့ချေ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၆၆ )

## ဒုတိယ ပိန္နဲကွင်းဆရာတော်

ထိုအခါ ဆရာတော်ဖြစ်သူ၏ ရုပ်ကလာပ်တော်ကို ဆက်လက်ကိုးကွယ်ပြီးလျှင် မိမိလည်း ဆက်လက်အားထုတ်ခဲ့ရာ တပည့်ဖြစ်သူ ဦးဝါယမကိုယ်တော်ကြီးလည်း ဆရာဖြစ်သူ၏ ကျင့်စဉ်အတိုင်း ဆက်လက်အားထုတ်ရာ ခန္ဓာဝန်စွန့်ပြန်သောအခါ ရုပ်ကလာပ်တော် မပုပ်မသိုး ကြွင်းကျန်ပြန်၏။

ဒုတိယဆရာတော် ဦးဝါယမ ကိုယ်တော်သည် တောထဲတွင် တရားလှည့်လည်အားထုတ်စဉ်အခါက တပည့်ခံပြီးလျှင် လိုက်လံပြုစု၍ တရားအားထုတ်သူ တပည့်တစ်ပါးရှိခဲ့ပြန်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၆၆ )

## တတိယ ပိန္နဲကွင်းဆရာတော်

ထိုတပည့်၏ အမည်မှာ ဦးစန္ဒကဖြစ်၏။ ထိုဦးစန္ဒက ကိုယ်တော်သည်လည်း ဆရာစဉ်ဆက်နည်းအတိုင်း ကျင့်ကြံအားထုတ်ပြန်ရာ ပျံလွန်တော်မူသောအခါ ရုပ်ကလာပ်တော် မပုပ်မသိုးကြွင်းကျန်ခဲ့ပြန်လေသည်။

ဤသို့ ဆရာစဉ်ဆက် ၃ ပါးစလုံး မပုပ်မသိုး ယနေ့တိုင် တည်တော်မူသဖြင့် အလွန်ထူးခြားတော်မူကြောင်း ဆရာစဉ်ဆက် ကြားနာမှတ်သားခဲ့ရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၆၆ )



**ပထမ ပိန္နဲကွင်းဆရာတော်**

၁၉၀၉ ပထမဆရာတော်မှာ ပိန္နဲကွင်းဆရာတော် ဦးကလျာဏဖြစ်ကြောင်း ဆိုခဲ့ပါသည်။ သက်တော် ၈၃ နှစ် ၂၉ ဇန်နဝါရီလ ၁၉၀၉ (၁၂၇၀ ပြည့်နှစ် တပို့တွဲလဆန်း ၄ ရက်)သောကြာနေ့တွင် ခန္ဓာဝန်စွန့်တော်မူကြောင်းသိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ ၆၆ )

**ဒုတိယ ပိန္နဲကွင်းဆရာတော်**

၁၉၄၄ ဒုတိယ ပိန္နဲကွင်းဆရာတော်သက်တော် ၈၅၊ ၁၉ ဩဂုတ်လ ၁၉၄၄ ခု (၁၃၀၆ ခု တော်သလင်းလဆန်း ၂ ရက်) စနေနေ့တွင် ခန္ဓာဝန် စွန့်တော်မူကြောင်း သိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ ၆၆ )

**တတိယ ပိန္နဲကွင်းဆရာတော်**

၁၉၅၂ တတိယ ပိန္နဲကွင်းဆရာတော် ဦးစန္ဒမှာ သက်တော် ၈၃ နှစ် ၂၂ မေလ ၁၉၅၂ ခု၊ (၁၃၁၄ ခု ကဆုန်လဆုတ် ၁၄ ရက်) ကြာသပတေးနေ့တွင် ခန္ဓာဝန်စွန့်တော်မူကြောင်းသိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ ၆၆ )

စတုတ္ထ ပိန္နဲကွင်းဆရာတော်မှာကား သာမန်မျှသာ ပျံလွန်တော်မူကြောင်း သိရှိပါသည်။ ၎င်းနောက် ပဉ္စမမြောက် ပိန္နဲကွင်းဆရာတော်မှာ ဦးနန္ဒဝံသဖြစ်ကြောင်း သိရှိရပါသည်။

**ယနေ့တိုင် ဖူးမြော်နိုင်သော ဆရာတော်ကြီးသုံးပါး ရုပ်ကလာပ်တော်များ**

ထိုဆရာစဉ်ဆက် ၃ ပါးစလုံး ရုပ်ကလာပ်တော်များတည်ရှိသောဒေသမှာ ဧရာဝတီတိုင်း၊ အင်္ဂပူမြို့နယ်၊ ပိန္နဲကွင်းကျေးရွာ ကပိဋ္ဌတောရကျောင်းတွင် ဖြစ်ကြောင်းသိရပါသည်။ နေရာမှာ ပုသိမ်မုံရွာ ကားလမ်းမကြီးအနီးတွင် ဖြစ်ပါသည်။ မပုပ်မသိုး တည်ရှိတော်မူသော ရုပ်ကလာပ်တော်များကို စောင့်ရှောက်လျက်ရှိသော ဆရာတော်မှာ ဦးတေဇမဉ္စုဖြစ်ကြောင်းသိရပါသည်။

(ကျမ်းကိုး။ ထိုနေရာသို့ သွားရောက်လိုသောသူများကို အခက်အခဲရှိလျှင် ရန်ကုန်မြို့ ကြည့်မြင်တိုင်မြို့နယ် ဘုံပျံကျောင်းတိုက် ဆရာတော်ဦးဝိဇယက ကူညီနေလေ့ရှိကြောင်း ဖုန်း - ၅၃၁၄၇၀ သို့ ဆက်သွယ်အကူအညီတောင်း မေးမြန်းသျှောက်ထားနိုင်ကြောင်းသိရှိရပါသည်။)

ရန်ကုန်မှ သွားသောသူများသည် ဇလွန် ဟင်္သာတမှတစ်ဆင့် ကွင်းကောက်သို့သွားနိုင်သည်။ ကွင်းကောက်မှတစ်ဆင့် ပိန္နဲကွင်းသို့သွားနိုင်သည်။ ပုသိမ် မုံရွာ လမ်းမကြီး၏ အရှေ့ဘက်တွင် ပိန္နဲကွင်း ရွာ တည်ရှိ၏ဟု သိရပါသည်။

(ကျမ်းကိုး။ ကျွန်ုပ်တို့သည် ဓမ္မာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ စာမျက်နှာ ၁၉၆၊ ၁၉၇ တို့တွင် ပိန္နဲကွင်းဆရာတော် ဦးကလျာဏ (၁၁၈၈ - ၁၂၇၀ )အကြောင်းအရာ အတ္ထုပ္ပတ္တိကို (၂)မျက်နှာမျှ ဖတ်ရှုရရာ အလွန် ကြည်ညို ဖွယ်ရာဖြစ်ပါသည်။ သို့သော်လည်း ဖတ်၍မဝနိုင် ကြည်ညို၍မဝနိုင်သဖြင့် ဆက်



လက်ရှာဖွေရာ မောင်ကျော်ဒင်ဆိုသူ ရေးသားခဲ့ဖူးသော အတ္ထုပ္ပတ္တိအဟောင်းကို တွေ့ရှိခဲ့ရကြောင်း ဓမ္မာစရိယ ဆရာကြီးဦးငွေလှိုင်က ဆိုခဲ့ပါသည်။ ၁၈ မျက်နှာမျှ ရှိသည်ဟုဆိုပါသည်)

တစ်နေ့အခါ ကျွန်တော်သည် ကံကောင်းထောက်မစွာဖြင့် မောင်ကျော်ဒင်ဆိုသူ မှတ်တမ်းတင်ခဲ့သောမှတ်စုကို ဖတ်ရှုခဲ့ရပါသည်။ ထိုထုတ်နုတ်ရရှိသောမှတ်စုတွင် ပထမပိန္နဲကွင်းဆရာတော် ဦးကလျာဏအကြောင်းကို ထပ်မံသိရှိရရာ ပိုမိုကြည်ညိုနိုင်ရန် ယခုမှတ်စုထုတ် ဖော်ပြပါမည်။ ၎င်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ စကားအသုံးအနှုန်းတို့မှာ မူရင်းအတိုင်း ဖြစ်ပါသည်။ မူလမှတ်တမ်းကို မပျောက်မပျက်စေရန်ဖော်ပြပါမည်။

## မူရင်းမှတ်တမ်း

အရညဝါသီအရပ်၌နေပြီးမှ ပျံလွန်တော်မူသော အကြောင်းအရာ အတ္ထုပ္ပတ္တိကို ဒါယကာ၊ ဒါယိကာမတို့သည် မှတ်မိမှတ်ရာ သိတတ်သရွေ့ သိကြသဖြင့် အကုန်အစင်သိရအောင် တပည့်ကြီးဖြစ်သူ ဘုန်းတော်ကြီး ဦးဝါယမထံတွင် ကျွန်ုပ်မောင်ကျော်ဒင်သည် အမှန်အကန် စစ်စစ်မြစ်မြစ် သေသေချာချာ သိရအောင် လျှောက်ထားပြီးလျှင် ဆရာတော်ဘုရားကြီး၏ အဖြစ်အစစ် အတ္ထုပ္ပတ္တိကို အဟုတ်အပတ် သိရသောအခါ ရှိသမျှသော အမျိုးကောင်းသားတို့ အကျိုးမစောင်းများဖို့ အမှုဆန်းစစ်လိုက်လျှင် ဥဒါန်းအဖြစ် မတိမ်ကောရအောင် တစ်ခုဂဏန်းတစ် အကြိမ်ကြိမ် ပြောလောက်သဖြင့် အစုစုအခန်းခန်း မလစ်မမှိန်သော ဂုဏ်သရေသီလတို့သည် စုံအချေညီမျှဖြင့် ဘုံရဝေ မဟီပထဗျာ၌ တည်ပကျော်စောတော်မူသော ပိန္နဲကွင်းတောရဆရာတော်ဘုရားကြီး၏ အဖြစ်အပျက်ကို မလစ်မတွက် ဘွားကတည်းက စ၍ တရားနည်း နယနေ စံသမျှတို့ကို ကေန္တ မစောင်းမချော်ဘဲ အရှည်မှန်သပ အကြောင်းမျှော်ပြီးလျှင် အလောင်းတော်ကြီး ဂူသွင်းတိုင်အောင် မှုမယွင်းနိုင်မမှား တကယ်အရေးပြုစုဖို့ သားငယ်မြေးတစ်စု နောင်အစဉ်မှတ်ရအောင် ကျွန်ုပ် မောင်ကျော်ဒင်က စာတစ်အုပ် စီရင်လိုက်ပါသတည်း။

ဆရာတော်ဘုရားကြီးသည် စာပေကျမ်းဂန်များကို တတ်မြောက်တော်မူသည်။ ဗေဒင်နက္ခတ်၊ မာတ်ကိန်း၊ ဗိန္ဓော တြိသတ်တို့ကို ကျွမ်းကျင်သော်လည်း ရဟန်းတို့ အရာမဟုတ် သက်ဆိုင်မှုမရှိဟုဆိုကာ စွန့်ပစ်ထားသည်။ သီလကို လေးမြတ်စွာ စောင့်ထိန်းတော်မူသည်။ အရညဝါသီ ရပ်ကိုမှီပြီး တရားအားထုတ်ရန်သာ ရှေးရှုသည်။

၁၈၁၈ ပြည်ခရိုင် ရွှေတောင်မြို့ ဇာတိ၊ အမိဒေါ်မယ်ရစ်မှ နောင်တွင် ပိန္နဲကွင်းဆရာတော်ကြီးဖြစ်မည့် ငယ်မည်မောင်ချိန်ကို (အေဒီ ၁၈၁၈) သက္ကရာဇ် (၁၁၈၀) ပြည့်နှစ် ဒုတိယဝါဆိုလဆန်း ၁၃ ရက်၊ တနင်္လာနေ့တွင်ဖွားမြင်သည်။

ရွှေတောင်မှ ဧရာဝတီမြစ်ကြောင်းအတိုင်း စုန်ဆင်းလာပြီး ဟင်္သာတအထက် ပက်လက်ဝမှ ဖြာထွက်လာသော မြစ်လက်တက် ငဝန်မြစ်ရိုးကိုဝင်၍ လေးမျက်နှာမြို့တွင် ပဲ့နင်းကြီးဘိုးပန်းရထံတွင်နေသည်။ လေးမျက်နှာမြို့သည် ရုံးစိုက်ရာဒေသဖြစ်၍ မြို့မှာမနေလိုဘဲ လေးမျက်နှာအထက်ဘက် ၅ မိုင်ခန့် ဝေးသော တောထဲ တောင်ထဲရှိ ပိန္နဲကွင်းရွာ၌နေသည်။



ပိန္နဲကွင်းရွာတွင် ကျောင်းဒါယကာ ဦးပါဆိုသူ လှူဒါန်းသော တိုင်တစ်ရာကျောင်းတွင် သီတင်းသုံးနေတော်မူပြီးမှတစ်ဖန် ပိန္နဲကွင်းရွာနှင့် တစ်မိုင်ခန့်ဝေးသော တောင်ကုန်းဒေသ ကမ်းပြိုတောင်ပေါ်သို့ ရဟန်းဝါ ၁၂ ဝါ အရတွင် ပြောင်းရွှေ့သီတင်းသုံး တရားအားထုတ်သည်။ မြို့ကြီးရွာကြီးများတွင် မနေလို၊ တောတောင်ထဲတွင်သာနေလိုသည်။

ကမ်းပြိုကျောင်း တောင်ကုန်းပေါ်တွင် တရားအားထုတ်နေရာမှ တစ်ဆင့် ကျပ်ပြင်အမည်ရှိ တောင်ပေါ်စခန်းတစ်ခုသို့ လူသူဝေးရာ ကြွမြန်းတရားအားထုတ်နေစဉ် မေတ္တာကမ္မဋ္ဌာန်း စွမ်းအင်ကြောင့် ရွှေသမင်သားအပေါင်းတို့သည် သနားကြောင်းအသင်းအပင်းနှင့် အချင်းချင်းရန် ဝေးကွာသလို အမှန်အေးရာ သဘောစိတ်အကြံဖြင့် တောတိရစ္ဆာန် ယုန်အရှိုင်းတို့သည် အုံပိုင်းကာ ဆရာတော်အား လာမျှော်ကာ ရဂုံဦး အစောင်းတွင် ယုန်တွေ ဝိုင်းအုံကြကြောင်းကိုလည်း ဆရာတော်ကြီး၏ အတ္ထုပ္ပတ္တိစာတမ်းတင်ထားသည်။

ထိုမှတစ်ဆင့် အနောက်ရိုးမတောင်ခြေတို့ကို လှည့်လည်သီတင်းသုံးနေရာမှ တစ်ဖန် တောနက်နက် တောင်ပေါ်ဒေသများဖြစ်ကြသည့် ကျီးပင်ခေါ် ကျွဲမသနားတောင်တွင် သီတင်းသုံးနေစဉ် ကျားကြီးတစ်ကောင် ရောက်လာသည်။ ကျားကြီးအနီးတွင် တရားဟော မေတ္တာပြုသောအခါ ကျားကြီးမှာ တောတွင်းဝင်ရောက် ကွယ်ပျောက်သွားလေသည်။

ထိုစခန်းတွင် တသွင်သွင်စီးဆင်းနေသော ရေတံခွန်တစ်ခုသည် လူသားတစ်ဦး၏ မှားယွင်းသောအပြုအမူကြောင့် ရေကရားနှုတ်သီးကို ပိတ်ဆို့လိုက်သလို ရေသွယ် ဖြာစီးကျလာခြင်းမှ ချက်ချင်းရပ်သွားသည်။ ဆရာတော်ဘုရားကြီး မေတ္တာရပ်ခံလိုက်သောအခါ စမ်းရေသည် ဘုံပိုင်ကို ရေဖွင့်ချလိုက်ဘိသကဲ့သို့ ပြန်လည်၍ တသွင်သွင်စီးကျလာသည့် ဖြစ်ရပ်ဆန်းတစ်ခုကလည်းထင်ရှားသည်။

ကမ်းပြိုတောင်တွင် တရားအားထုတ်နေစဉ် တစ်ညသ၌ ညဥ့်လယ်ယံတွင် စောင်းညင်း တူရိယာများ တီးခတ်သံများကို မကြုံစဖူး ထူးဆန်းစွာကြားကြရသည်။ ထွက်၍ ကြည့်ကြပါသော်လည်း တစ်စုံတစ်ဦးမျှ မတွေ့ကြရ၍ နတ်သဘင်ပွဲ တစ်ခုပေပဲလားဟု တွေးတောနေကြသည်။

ဆရာတော်ကြီး ကြွရောက်သီတင်းသုံး တရားအားထုတ်ရာဒေသများတွင် ကျေးငှက်သာရကာများမှလည်း ပန်းပေါင်းစုံများပွင့်ကြသည်။ တောတောင်ဖြစ်၍ ကျေးငှက်သာရကာများရှိသည် ပန်းပွင့်သည်မှာ နိယာမထက် ပိုမိုထူးကဲသဖြင့် မှတ်တမ်းတင်ထားခဲ့ခြင်းဖြစ်သည်။

စေတီခုံအမည်ရှိနေရာတွင် နှစ်ကျိပ်ရှစ်ဆူဘုရားများကို တည်ထားကိုးကွယ်တော်မူခဲ့သည်။ တောတောင်ထဲတွင် စေတီတည်ရန် လိုအပ်သောတည်ဆောက်ရေးပစ္စည်းများ ဘယ်ကဲ့သို့ ရရှိတည်ထားသည်ကိုလည်း အထူးအဆန်းသဖွယ် ပြောဆို၍ ဆရာတော်ကြီးအား ပိုမိုကြည်ညိုကြသည်။

ထို့နောက် စစ်တုံစမ်း အမည်ရှိဒေသ၊ သင်တောမြောင် တံခွန်တိုင် ကိုးကယ်တောင်ဒေသများသို့လည်း တစ်နေရာပြီးတစ်နေရာ လှည့်လည်၍ တရားအားထုတ်သည်။ ကိုးကယ်တောင် တောင်အထက်တွင်လည်း စေတီတစ်ဆူတည်တော်မူခဲ့သည်။



ဆက်လက်၍ ကိုးမောင်းတောင်၊ ပန်းတောကြီး၊ ငါးပုမြောင်၊ စက်စက်ယို၊ နံကပ် အစရှိသည့် နေရာများသို့လည်း လှည့်လည်သွားလာ တရားအားထုတ်တော်မူသည်။ တရားအားထုတ် နေစဉ်အတွင်း ဘုရားများလည်း တည်ထားကိုးကွယ်ခဲ့သည်။

စိုင်းတောင်အမည်ရှိ တောင်ပေါ်တွင် သီတင်းသုံးတရားအားထုတ်နေစဉ် တောင်နှစ်လုံးကြား ဆင်ပချပ်ခေါ် လမ်းမြောင်ထဲတွင် တောဆင်ရိုင်းကြီးတစ်ကောင်နှင့် မျက်နှာချင်းဆိုင်တွေ့ကြုံသည်။ အခြားဆင်တို့သည် နောက်လှည့်၍သွားခဲ့သည်။ ထိုတောဆင်ရိုင်းကြီးမှာမူ နှာခေါင်းကို မာန်တင်းထားပြီး နားရွက်တောင့်တောင့်ကြီးပေကာ ရန်ပြုမည့်ဟန်ကြည့်သည်။ ဆရာတော်ကြီး၏ သီလ သမာဓိ ပဋိပတ် အကျင့်မြတ်ကြောင့် မာန်ဟုန်ပြင်းသည့် တောဆင်ရိုင်းကြီးသည် ဆရာတော်ကြီးနှင့် အတောင် ၂၀ ခန့် နီးကပ်အောင် ရှေ့တိုးလာပြီး ဆရာတော်ကြီးက တရားဟောပြဆုံးမသောအခါ နှာမောင်းကိုနှိမ့်ချ၍ မရှောင်ကွင်းသာသော ဆင်ပချပ်လမ်းမြောင်ထဲမှ နောက်သို့ဆုတ်လှည့်၍ လာလမ်းအတိုင်းပြန်သွားလေသည်။

ဆရာတော်ကြီးသည် တရားရှာမှီး အားထုတ်ဖွယ်ရာ ကောင်းသောနေရာများသို့ တစ်တောင်ပြီးတစ်တောင် တစ်တောပြီးတစ်တောဝင်လျက် ဆက်လက်သွားရောက်နေရာ နံကသူလိုဏ်ဂူထဲသို့ရောက်သွားသည်။

ကျောက်ခုတင်တစ်လုံးကို အသင့်တွေ့ရသည်။ လိုဏ်ဂူရင်ပြင်မှာလည်း ကျောက်သလင်းများ ခင်းထားဘိသကဲ့သို့ ပြန့်ပြန့်ပြူးပြူးရှိသည်။ လိုဏ်ဂူတွင်းမှာ ခိုအောင်းနေကြသော အကောင်ပေါင်း မြောက်မြားစွာရှိသည့် လင်းနို့များသည် ညဘက်တွင် အုပ်လိုက်ပျံထွက်သွားကြပြီး နေ့ဘက်တွင် အုပ်နှင့်ချီ ပြန်ဝင်လာကြသည့် အသံများလည်း လိုဏ်ခေါင်းသံကြောင့် ဆူညံတုန်ဟီး ကြောက်မက်ဖွယ်ရာ ကောင်းလှပါတော့သည်။

တရားရှင်ဆရာတော်ဘုရားကြီးသည် မတုန်မလှုပ် တရားဘာဝနာများကို အားထုတ်မြဲ အားထုတ်နေတော်မူသည်။ ပို၍ ကြောက်စရာအကောင်းဆုံးမှာ ကြီးစွာသော မြွေကြီးတစ်ကောင်သည် သူနေထိုင်ရာ လိုဏ်ဂူအတွင်းသို့ ကျူးကျော်ဝင်ရောက်လာခြင်းကို ရန်လိုသောသဘောဖြင့် ဆရာတော်ကြီးအနီးရောက်လာပြီး ပါးပျဉ်းထောင်လျက် ကိုက်မျိုတော့မည့်ဟန် ရန်မူလျက်ရှိသည်တွင် တရားရှင်ဆရာတော်ကြီးက တရားဟောပြဆုံးမသဖြင့် မာန်စွယ်ကိုချ ဦးနှိမ်ညွတ်ကျိုးဝပ်တွားပြီးလျှင် အထွတ်ကမ်းပါးမှ အလွတ်သို့ရှား၍ ဖယ်သွားလေသတည်း။ လှည့်လည်တရားအားထုတ်နေရာတွင် ပိန္နဲကွင်း၏တောင်ဘက် ၃ မိုင်ခန့်အကွာ ရန်ကင်းတောင်အမည်ရှိ တောင်ကုန်းတစ်ခုသို့ ရောက်သွားသည်။

ရန်ကင်းတောင် တောင်ကုန်းပေါ်တွင် ဥမ္မာဒန္တီတည်ထား ကိုးကွယ်ခဲ့သော စေတီတစ်ဆူရှိသည်။ စေတီမှာ ပြိုပျက်နေ၍ ဘေးကထပ်ရံပြီး စေတီကြီးတစ်ဆူ အများကောင်းမှုဖြင့် တည်တော်မူသည်။ လှူဒါန်းသူအလှူ့ဒါယကာ ဒါယိကာမများလည်း သဒ္ဓါတရားထက်သန်စွာ ပါဝင်လှူဒါန်းကြသည်။

စေတီတော်တွင် မူလအလှူရှင် တင်လှူပူဇော်ထားသော ထီးတော်ဟောင်းသို့ အသစ်လဲလှယ် ထီးတော်တင်ရန် စေတီတော်မှ အောက်သို့ချရမည့် အခက်အခဲကြုံနေကြသည်တွင် ဆရာတော်ဘုရားမေတ္တာကြောင့် တစ်မိနစ်မကြာ နတ်သိကြားတို့



ထပ်ပွားလို့ ကူညီစောင့်ရှောက်ထင့် ဘူမဟိဘုတ်မြေကိုလှုပ်ခြွေ၍ သုတ်လေပြည်သွင်း ကာသွေးတော့ မြင့်ရာကြေးထီးကနက်တို့သည် အသီးသီးမပျက် အခွေလိုက် မြေ၌ ကျလာ၍ အထအခါမြောက်ပေသတည်း။ ရောက်လာသောဒါယိကာမတို့သည် အခါခါရင်တီး၍ အံ့ဖွယ်ကြီးတစ်ခုကို ရှုကြည့်ကြလေသတည်းဟုသိရပါသည်။ (မူရင်းစာသားများ)

အထက်ပါ အချက်အလက်များမှာ ပထမဆရာတော်ဘုရားကြီး၏ အတ္ထုပ္ပတ္တိစာတမ်း ရေးသားသူ မောင်ကျော်ဒင်ဆိုသူ၏ မှတ်တမ်းအရ သိရှိရခြင်းဖြစ်ပါသည်။ ပထမ ဆရာတော်ဘုရားကြီး ဦးကလျာဏ အရှင်မြတ်ကြီးအကြောင်းကို ဒုတိယဆရာတော်ကြီး ဦးဝါယမထံမှ မေးမြန်းလျှောက်ထားပြီး ဆရာကြီး ဦးကျော်ဒင်ဆိုသူက ရှေးခေတ်မူ ရှေးခေတ်ဟန်ဖြင့် လင်္ကာနဘောကာရန်များဖြင့် ရေးသား ခဲ့ခြင်းဖြစ်သည်။

(ကျမ်းကိုး။ အတ္ထုပ္ပတ္တိ ကျမ်းပြုဆရာ မောင်ကျော်ဒင်ဆိုသူက ရေးသားမှတ်တမ်းတင်ခဲ့ကြောင်းကို စာပြုပုဂ္ဂိုလ် ဆောင်းပါးဆရာဦးမြင့်လွင်(ဟင်္သာတ)မှ တစ်ဆင့် ဖတ်ရှုသိရှိရပါသည်။)

၁၉၀၈ ဆရာတော်ကြီးသည် အေဒီ ၁၉၀၈ ခု (ကောဇာသက္ကရာဇ် ၁၂၇၀ ပြည့်နှစ်)တွင် ဘဝနတ်ထံပျံလွန်တော်မူသည်။ ဆရာတော်ကြီး၏တပည့် ဦးဝါယမနှင့် ဒါယကာ ဒါယိကာမများသည် ဆရာတော်ကြီး၏ အလောင်းတော်အား သလွန်ထက်တွင် တင်ထားပြီး အန္တိမဈာပနအတွက် ကြည်ညိုရင်းစွဲရှိကြသည့်အတိုင်း ထူးကဲစွာပြင်ဆင် မွမ်းမံနေကြသည်။

(ကျမ်းကိုး။ ဆောင်းပါးရှင် မြင့်လွင် (ဟင်္သာတ)၏ ကောင်းမှုကြောင့် တောရပ်မှီသည့် ဆရာတော်ကြီး ၃ ပါး၏ မပုပ်မသိုးအလောင်းတော်များ အကြောင်းကို ဂန္ထဝင်ရမဂ္ဂဇင်း၊ ၂၀၀၅ ခု ဖေဖော်ဝါရီလ အတွဲ ၁၁၅ ၊ စာ ၃၈ - ၄၃ တွင် ဖတ်ရှုခဲ့ရပါသည်။ )

ဖြစ်ရိုးဖြစ်စဉ်မဟုတ်မှုဘဲ ဆရာတော်ကြီး၏ အလောင်းတော်မှာ အသားအရေ အထွေထွေသော ဓာတ်တို့သည် မယိုမယွင်း မပျက်မပြား အကောင်းလတ်လတ် အသွေးအသားကဲ့သို့ ရုပ်တော်မညှိုး ပုပ်သိုးခြင်းမရှိ ပကတိအသားအရေတို့ ဖြစ်ရှိနေသည့် ဆရာတော်၏အလောင်းတော်ကို ဖူးတွေ့ကြရ သည်။

(ကျမ်းကိုး။ အတ္ထုပ္ပတ္တိ ကျမ်းပြုဆရာ မောင်ကျော်ဒင် ဆိုသူက ရေးသားမှတ်တမ်းတင်ခဲ့ကြောင်းကို စာပြုပုဂ္ဂိုလ် ဆောင်းပါးဆရာဦးမြင့်လွင် (ဟင်္သာတ)မှတစ်ဆင့် ဖတ်ရှုသိရှိရပါသည်။)

## တည်နေရာ အနေအထား

ကန်ပျိုတောင် (ကပျိုတောင်)မှာ အင်္ဂပူမြို့နယ် ကွင်းကောက်တိုက်နယ်အတွင်း ပိန္နဲကွင်းကျေး ရွာ၌တည်ရှိ၏။ ပိန္နဲကွင်းကျေးရွာ အဝင်ဝတွင် အလျားလိုက်တည်ရှိ၏။ ထိုကန်ပျိုတောင်ဦးတွင် စေတီတစ်ဆူရှိ၏။ ကန်ပျိုတောင်ဦး စေတီဟူ၍ခေါ်ဆိုကြသည်။ ထိုစေတီ၏ အနောက်ဘက်ကုန်း ထက်တွင် ရုပ်ကလာပ်တော်များ တည်ထားကိုးကွယ်သောနေရာရှိ၏။ အရှေ့ဘက်တန်ဆောင်းတွင် ဆရာတော် ဦးကလျာဏ၏ အထိမ်းအမှတ် ရုပ်ကလာပ်တော်လည်းရှိ၏။

(ကျမ်းကိုး။ ဆရာတော်၏ ထေရုပ္ပတ္တိကျောက်စာလည်းရှိ၏။ ထိုကျောက်စာအရ ပိုမိုပို၍သိရှိရပါသည်။)



**ဇာတိ**

၁၈၁၈ ဆရာတော်သည် ရွှေတောင်မြို့ ဇာတိ အမိ ဒေါ်ရစ်၏ သားဖြစ်၍ အေဒီ ၁၈၁၈ခု၊ ဇူလိုင် ၁၅ ရက်၊ (မြန်မာသက္ကရာဇ် ၁၁၈၀ ခုနှစ် ဒုတိယဝါဆို လဆန်း ၁၃ ရက်) တနင်္လာနေ့တွင် မွေးဖွားကြောင်း ငယ်မည် မောင်ချိန်ဟု တွင်ကြောင်း သိရှိပါသည်။

**ပိန္နဲကွင်းရွာသို့ ရောက်လာပုံ**

၁၈၆၃ ပန်းတောင်းမြို့ ပျက်သောအခါ ရွှေတောင်မှထွက်ခွာ၍ လေးမျက်နှာသို့ ရောက်ရှိစဉ် ပိန္နဲကွင်းရွာသားများ ပင့်လျှောက်ချက်အရ ကန်ပျုံတောရသို့ ရောက်ရှိကာ အေဒီ ၁၈၆၃၊ (၁၂၂၅ ခုနှစ်)တွင် ကန်ပျုံတောင်ဦးစေတီ၊ ရွှေကူနီစေတီများ တည်ဆောက်ပြီး နောက် ကန်ပျုံမှခွာလျက် ဤနေရာများသို့ လှည့်လည်သီတင်းသုံး ကျင့်ကြံ အားထုတ်တော်မူကြောင်း သိရှိရပါသည်။

**တရားအားထုတ်ခဲ့သော နေရာများ**

ရင်းအပြင် သိုက်ဝါးချောင်၊ ဘုရားကိုင်းကိုင်း၊ ဆင်တောမြောင်၊ မင်္ဂလာကုန်း၊ ကိုးခွက်တောင်၊ ကိုးမောင်းတောင်၊ ဘုရားလေးကျော၊ ငပုချောင်၊ စက်စက်ယို၊ ကျားခေါင်းဂူ၊ နံကပ်၊ ဆင်မကြုပ် မရှောင်သာ၊ နန်ကသူ စသည့်နေရာများတွင် ကျင့်ကြံအားထုတ်ခဲ့ကြောင်းသိရှိပါသည်။ ထိုသို့ ကျင့်ကြံအားထုတ်ရာတွင် လမ်းတစ်လျှောက်မှာ ထူးခြားအံ့ဖွယ်ရာများစွာ ကြုံတွေ့ရကြောင်းသိရှိရပါသည်။

**တောဆင်ရိုင်းများနှင့် တွေ့ခြင်း**

ဥပမာအနေဖြင့် ဆင်မကြုပ်မရှောင်သာတောင်တွင် တောဆင်ရိုင်းများနှင့် ပက်ပင်းတိုးရာ မေတ္တာပို့သလျက်သာ မလှုပ်မယှက် သီတင်းသုံးတော်မူနေသည်တွင် ဆင်ရိုင်းများသည် တာ ၂၀ အကွာအထိ နောက်ဆုတ်သွားကာ လှည့်၍ရှောင်သွားကြသည်ဟု ဆိုကြပါသည်။

**နန်ကသူလိုဏ်ဂူနှင့် နာနာဘာဝများ**

နန်ကသူလိုဏ်ဂူအတွင်း၌မူ မြွေကြီးတစ်ကောင် ပါးပျဉ်းထောင်ကာ အုပ်မိုးပူဇော်လျက် အတန်ကြာမှ ပါးပျဉ်းကိုရုပ်၍ ရှောင်သွားသည်။ နာနာဘာဝများ ဝေမာနိက များကလည်း ရုပ်သွင်အမျိုးမျိုးဖြင့် တားဆီးကြကာ နောက်ဆုံးတွင် လက်လျှော့ ရှောင်လွှဲသွားကြသည်ဟုသိမှတ်ရပါသည်။

**ပထမ ပိန္နဲကွင်းဆရာတော် ဦးကလျာဏ**

ပထမ ပိန္နဲကွင်းဆရာတော် ဦးကလျာဏ ပေါက်ရောက်အောင်မြင်ခဲ့သော အောင်မြေမှာ နန်ကသူ သာသနာ့နယ်မြေဖြစ်ကြောင်းသိရပါသည်။

ဆရာတော်၏ ဂန္ဓာရီခရီးစဉ်မှာ ကန်ပျုံတောရမှ နန်ကသူလိုဏ်ဂူ တိုင်အောင် မိုင်(၄၀)ကျော်ရှိသည့် တောင်တက်တောင်ဆင်း တောတောင်ခရီးဖြစ်ကြောင်း



သိရပါသည်။ သာမန်ခရီးသွားများ (၃)ရက် (၃)ညကြာအောင် သွားရသောခရီး ဖြစ်၏။

နန်ကသူလိုဏ်ဂူသည် အင်ပူမြို့နယ်အတွင်း၌ တည်ရှိသော လိုဏ်ဂူဖြစ်၏။ တောင်(၉)လုံး ဝိုင်းရံလျက်ရှိ၏။ ဂူ(၉)ဂူ ဝိုင်းရံလျက်ရှိသည်။ ဒန်အိုးသဏ္ဌာန် ချိုင့်ခွက်နေသည်။ မြေအောက်ဥမင်လိုက်ဂူကြီးဖြစ်ပေသည်။

နန်ကသူလိုဏ်ဂူတွင် အထက်လိုဏ်ဂူ အောက်လိုဏ်ဂူ စသဖြင့် ဂူကြီး (၉) ဂူ ရှိကြောင်း သိရပါသည်။ ၎င်းတို့မှာ ၁။ အထက်လိုဏ်ဂူ ၂။ အောက်လိုဏ်ဂူ (ရွှေစေတီလိုဏ်ဂူ) ၃။ ဆေးဂူ ၄။ ရတနာဂူ ၅။ မြနန်းရွှေဂူ ၆။ ကျားဂူ ၇။ သားဂူ ၈။ ဆွမ်းစားဂူ ၉။ ပေါက်အောင်ဂူဟူ၍ဖြစ်ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ မင်းကျော်ထက်၊ လိုဏ်ကိုးဂူ ရစ်ဝန်းခွေသည့် နန်ကသူ သာသနာ့မြေ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၄ ခု၊ ဧပြီလ စာ ၈၃ )

ပထမ ပိန္နဲကွင်းဆရာတော်ကြီး ဦးကလျာဏရောက်ရှိစဉ်က ထူးခြားသော ဖြစ်ရပ်မှန်များ တွေ့ကြုံခဲ့ရသော လိုဏ်ဂူကြီးလည်းဖြစ်၏။ ဆရာတော်ကြီးသည် ရွှေစေတီ၏ နောက်ဘက်တွင်ရှိသော ဥမင်လိုဏ်ဂူထဲသို့ ဖယောင်းတိုင်များထွန်းညှိကာ သွားရောက်ခဲ့ကြောင်း လိုဏ်ဂူအတွင်း ဝင်ရောက်ခဲ့သောအခါ ဘီအိုစီဖယောင်းတိုင်(၁၂)တိုင် ကုန်သောအခါမှ လိုဏ်ခန်းမကြီးတစ်ခုသို့ ရောက်ရှိခဲ့ ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၆ )

## ထူးခြားချက်

ထိုလိုဏ်ဂူကြီးနှင့်စပ်လျဉ်းသော ပထမ ပိန္နဲကွင်းဆရာတော်၏ ဖြစ်ရပ်များကို အံ့ဖွယ်သိရှိ ရပါသည်။

ခန်းမကြီးအတွင်း၌ ဝတ်လစ်စလစ် အမျိုးသမီးတစ်ယောက် ကျောခိုင်းလှဲလျောင်း နေသည်ကိုတွေ့ရသဖြင့် အသုဘကမ္မဋ္ဌာန်းကို နှလုံးသွင်းပွားများခဲ့ကြောင်း မေတ္တာ အမျှဝေခဲ့ကြောင်း နာရီအနည်းငယ်မျှ တရားဓမ္မဟောကြား ချေချွတ်သော်လည်း တုတ်တုတ်မျှမလှုပ်သဖြင့် တော်လောက်ပြီဟု သဘောပိုက်ကာ နောက်ကြောင်း ပြန်လှည့်ခဲ့ကြောင်းသိရပါသည်။ နားလည်သူတချို့ကလည်း ဆရာတော်ကြီးကို ရှေ့သို့ဆက်လက် မကြွချီစေလိုသောကြောင့် တားဆီးခြင်းလည်း ဖြစ်နိုင်ကြောင်း ပြောကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ ၂၀၀၄ ခု၊ ဧပြီလ စာ ၈၆ )

## ရဟန်းထူး ဆရာတော် ဦးဉာဏော

နန်ကသူလိုဏ်ဂူနှင့်ပတ်သက်၍ မျက်မှောက်ခေတ် ပုဂ္ဂိုလ်ကြီးတစ်ဦးမှာ ဆရာတော် ဦးဉာဏော ဖြစ်ကြောင်း ပြောဆိုလေ့ရှိကြပါသည်။

ဆရာတော်ကြီးမှာ ကန်ကြီးထောင့်မြို့နယ် ညောင်သာကျေးရွာ ဇရပ်ကြီး ကျောင်းဆရာတော် အာယသ္မာ ဉာဏောဒ ပုံတော်ဟု ဆရာတော်၏ ကမ္ပည်းစာအရ ဘွဲ့တော်ကိုသိရှိရပါသည်။ ကန်ကြီးထောင့်ဆရာတော် ဦးဉာဏောဟု လူသိများ ထင်ရှားလှပါသည်။



၂၀၀၃ ကန်ကြီးထောင့်ဆရာတော် ဦးဉာဏောသည် ၂၀၀၃ ခုနှစ် နိုဝင်ဘာလ ၂၁ ရက်နေ့ကပင်လျှင် ပျံလွန်တော်မူခဲ့ကြောင်း သက်ဆိုင်ရာဒေသခံများက ပြောကြားကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၇)

မှတ်ချက်။ (သို့သော်လည်း ကျွန်ုပ်တို့ ရန်ကုန်မြို့နေလူများက ဆရာတော် ဦးဉာဏောကို သံလျင်မြို့တွင် ၂၀၀၄ ခုနှစ်တွင်မှ တစ်ဝါတွင်းလုံး ဖူးမြော်ခဲ့ရသဖြင့် မျက်စိလည်လျက် ရှိပါသည်။

(ကျမ်းကိုး၊ မောင်ပန်းမွေး မှတ်စု)

နန်ကသူလိုဏ်ဂူအကြောင်းပြောလျှင် အင်ပူမြို့နယ် ကွင်းကောက်ရွာအနီးရှိ မြင်းစိုင်းတောင်ကြောအကြောင်းလည်း ပြောစရာရှိလာပြန်ပေသည်။

## လုပ်ရပ်အပြီးတိုင် အောင်မြင်သွားသော အမတ်ကြီး ပညာသိရိကျော်

မြင်းစိုင်းတောင်ကြောသည် ဇေယျသိင်္ခ နားတောင်းများမင်း လက်ထက်တွင် လုပ်ရပ်ပညာကို အပြီးတိုင်အောင် အောင်မြင်ခဲ့ကြသော အမတ်ကြီး ၃၆ ဦးတို့၏ အောင်မြေလည်းဖြစ်ကြောင်း သိရှိရပါသည်။

ထိုနေရာသည် ကွင်းကောက်ကျေးရွာ၏ အနောက်ဘက်ရှိ ချောင်းဂွရွာ၏ မြောက်စူးစူး အရပ်မှာရှိ၏။ ခြေလျင်ခရီးဖြင့် ၂ နာရီလောက်သွားလျှင် ရောက်ပါ၏။ ဇေယျသိင်္ခမင်းလက်ထက်တွင် အမတ်ကြီး ပညာသိရိကျော်သူသည် နောက်မှအမတ် ၃၅ ဦးတို့နှင့်အတူ ဤနေရာ ဤဒေသတွင် မြင်းစိုင်းမြို့ကို တည်ထောင်ခဲ့ကြောင်း သိရှိရပါသည်။

မြင်းစိုင်းမြို့၏ အရှေ့တောင်အရပ်တွင် မိမိတို့ကျွမ်းကျင်သော အဂ္ဂိရတ်ပညာဖြင့် ရွှေခွက် ၃၆ ခွက် ဖန်တီးပြုလုပ်ကာ သရီဓာတ်တော်များ ရွှေစေတီတစ်ဆူ တည်တော်မူခဲ့ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ဇင်ညိုငယ်၊ ဘုရားကိုင်းကိုင်း မြင်းစိုင်းတောင်ကြောသို့၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၄ ခုနှစ်၊ မတ်လ စာ ၉ )

၁၈၉၃ ယခုဖူးတွေ့ရသော လေးကျွန်းကပ်ကျော် တစ်ဝဂူစေတီတော်အပြင် ဘုရားကိုင်းကိုင်းဟု ခေါ်ဝေါ်သမုတ်ကြသော စေတီတော်ကြီးမှာ အေဒီ ၁၈၉၃ ခု (၁၂၅၅ ခုနှစ်)က မြို့ကွင်းဆရာတော် ဦးကလျာဏ ဦးစီးမွမ်းမံတည်ဆောက်ခဲ့ခြင်း ဖြစ်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၀-၁၁ )

ခပ်လှမ်းလှမ်းအနောက်ဘက် ကုန်းတက်တွင် ဖူးမြော်ရသော စေတီမှာ မြင်းစိုင်းတောင်ဆုတောင်းပြည့် ကိုးနဝင်းစေတီတော်ဖြစ်သည်။ ပညာသိရိကျော်အပါအဝင် ဆေးဝိဇ္ဇာ ၃၆ ဦးတို့ ဓာတ်ပန္နက်ချ တည်ဆောက်ခဲ့သော စေတီလည်းဖြစ်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၀-၁၂ )



## ရုပ်ကလာပ်တော်များ တည်ရာလမ်းညွှန်

အင်္ဂပူမြို့နယ် ကွင်းကောက်တိုက်နယ်အတွင်းရှိသော ကန်ပျိုတောင်ကလေးသည် ပိန္နဲကွင်းကျေးရွာ အဝင်အဝ၌တည်ရှိ၏။ ပိန္နဲကွင်းဆရာတော်များ ရုပ်ကလာပ်တော်များ ပူဇော်ထားရှိရာ နေရာလည်းဖြစ်၏။

## ဆရာစန္ဒြ၏ စာ

ဤစာပြုသူသည် ပိန္နဲကွင်းဆရာတော်အကြောင်း စုဆောင်းလျက်ရှိရာ ဆရာစန္ဒြကို သတိရမိပါသည်။ ဆရာစန္ဒြသည် မိမိ၏ဆရာများကို ကြည်ညိုရင်းစွဲရှိသည်သာမက ထိုသို့သော ပုဂ္ဂိုလ်ထူးကြီးများကို ကိုးကွယ်ရခြင်းကိုလည်း အစဉ်အမြဲဂုဏ်ယူကြွားဝါလေ့ရှိပါသည်။

ကြွားဝါသည်ဟု ဆိုရခြင်းမှာလည်း မိမိ၏ ကုသိုလ်ကံကောင်းခြင်းကြောင့် ဆရာကောင်းများကို ဖူးမြော်ရ၍ မိမိလည်း တပည့်ကောင်းဖြစ်ပေရပေသည်ဟု ဆရာကောင်းတပည့် ပန်းကောင်းပန်သဘောဖြင့် ဂုဏ်ယူ၍ ကြွားဝါသည်ဟု ဆိုရခြင်းဖြစ်ပါသည်။ အောက်တွင်ဖတ်ကြည့်ပါ။

> 'ဟင်္သာတမြို့မြောက်ဘက် ဓနုဖြူမြို့၊ ဓနုဖြူမြို့အနောက်ဘက် ကွင်းကောက်ဆိုသော ရွာကြီးရှိတယ်။ ဓနုဖြူမှကွင်းကောက်သို့ ၈ မိုင်လောက်ဝေးမယ်။ အဲဒီကွင်းကောက်က အနောက်တည့်တည့်သွားရင် ၇ မိုင်ကျော်၊ ၈ မိုင်လောက်မှာ အနောက်ရိုးမတောင်ခြေမှာရှိတဲ့ ပိန္နဲကွင်းဆရာတော်အကြောင်းပဲ'
>
> 'ဒီဆရာတော်ရှိရာကို အသက် ၁၃ နှစ်က၊ ကျုပ်အဖေနှင့်အတူ ရောက်ဖူးတယ်၊ ဆရာတော်ကို လူအများက ရဟန္တာဟုကြည်ညိုကြတယ်။ ဆရာတော် ခြေလှမ်းတိုင်းလှမ်းတိုင်း မြေကြီးက ပန်းတွေပွင့်ပွင့်ပေါ်လာတယ်လို့ ဆိုတယ်။ အလွန်အံ့ဩစရာကောင်းတာပေါ့၊ ဒါပေမဲ့ အဲဒီခေတ်က သတင်းစာခေတ်၊ ရေဒီယိုခေတ်မဟုတ်တော့ သိတဲ့သူသိပ်နည်းတယ်။ အဲဒီနားတစ်ဝိုက် ရွာတွေပဲသိကြတယ်'
>
> 'ဘုန်းကြီးပျံပြီးတော့ ဆရာတော်၏အလောင်းတော်ကို မီးသဂြိုဟ်ခြင်းမပြုရဘဲ ဆရာတော်အမိန့်အတိုင်း ဆရာတော်အတွက် အသစ်ဆောက်ပေးသော ကျောင်းပေါ်မှာထားရတယ်။ ယနေ့အထိပုပ်သိုးခြင်းမရှိ။ ဆရာတော်၏ အသားအရေများမှာ အသက်ရှင်တုန်းကကဲ့သို့ပင် ပြည့်ဖြိုးဝင်းထိန်နေတယ်။ ထူးဆန်းတာက ကိုင်ကြည့်လျှင်လည်း ဆရာတော်ရဲ့ခေါင်းက ဆံပင်ဟာ အသက်ရှင်တုန်းကကဲ့သို့ တစ်ခါရှည်ရှည်လာ၍ ရိတ်ပေးရတယ်။ အံ့ဩဖွယ်ပဲဖြစ်တယ်'။
>
> 'ယခုဆိုလျှင် ဆရာတော်ကြီး၏ နောက်ထပ်တပည့်ရဟန်းနှစ်ပါးပါ ဆရာတော်ကဲ့သို့ပင် ဆရာတော်၏ အလောင်းနားယှဉ်၍ ၃ ပါးဖြစ်နေတယ်။ ၃ ပါးစလုံး အလောင်းတော်များမှာ ပုပ်သိုးခြင်းမရှိ၊ လူပြကတော့ အိပ်နေသကဲ့သို့ အသားအရေများစိုပြည်နေတယ်။ ဆရာတော်လိုပဲ ဆံပင်တွေဟာ ရှည်ရှည်လာ၍ တစ်လတစ်ခါ နှစ်လတစ်ခါ၊ ရိတ်ပေးရတယ်။ ကျုပ်ကိုယ်တိုင် ဖူးမြော်ခဲ့ရတယ်'
>
> ကျွန်ုပ်သည် ဤအကြောင်းကို ကြားသောအခါ အလွန်ဝမ်းသာသွားသည်။ ဆရာကြီးနှင့် ချက်ချင်းသွားကြပါစို့ဟု တိုင်ပင်သည်။ ထိုအခါ ဆရာကြီးကပြောသည်။



'အနောက်ရိုးမ တောင်ခြေမှာ ကရင်ရွာများဖြစ်တယ်။ အကယ်၍ မြို့ကလူများတွေ့လျှင် အဆင်မသင့်က ပြန်ပေးဆွဲနိုင်တယ်။ တိုင်းပြည်ကောင်းမှသွားကြပါစို့' ဟုပြောခဲ့ပါသည်။ ဆရာကြီးလည်း အသက် ၈၂ နှစ်၊ ၁၃၃၉ ခုနှစ်မှာ ကွယ်လွန်သွားခဲ့သည်။ ပိန္နဲကွင်းဆရာတော်ကို ကြားဖူးရုံသာရှိသည်။ ဖူးတွေ့ခွင့်မရခဲ့ပါ။

(ကျမ်းကိုး၊ ဆရာစန္ဒြသည် မိမိ၏ ဘဝခရီးနှင့် အတွေ့အကြုံများ စာအုပ်စာမျက်နှာ ၃၃၂ - ၃၃၃ တို့တွင် ပိန္နဲကွင်းဆရာတော်အကြောင်းကို တစ်ဆင့်ခံပြန်ရေးထားသည်မှာ အလွန်မှတ်သားလောက်ပါသည်။)

မြန်မာပြည်တွင် ဤကဲ့သို့ ထူးခြားသော ရဟန္တာပေါင်းများစွာရှိသည်။ ဝေဘူဆရာတော်၊ စွန်းလွန်းဆရာတော်ဘုရားတို့ ယခုလက်တွေ့ရှိနေသည်။ သာသနာတော်၏ အံ့ဖွယ်ရာပင်ဖြစ်တော့သည်ဟူ၍ ဆရာစန္ဒြကမှတ်တမ်းတင်ခဲ့ပါသည်။

(ကျမ်းကိုး၊ (၁) မင်းကျော်ထက်၊ လိုက်ကိုးဂူ ရစ်ဝန်းခွေသည့် နန်ကသူ သာသနာ့မြေ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၄ ခု၊ ဧပြီလ စာ ၁၇-၂၀၊ (၂)ကဥ္စသူ၊ ကပိုတောရကျောင်းမှ အံ့ဖွယ်ပုဂ္ဂိုလ်ထူး ၃ ပါး နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၉ ခုနှစ်၊ နွန်လ စာ ၆၅ ) (၃) ဇင်ညိုငယ်၊ ဘုရားကိုင်းကိုင်း မြင်းစိုင်းတောင်ကြောသို့ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း ၂၀၀၄ ခု၊ မတ်လ စာ ၉ - ၁၂ ) (၄) စံထွန်းသာ၊ ကန်ပျိုတော်ဦးမှ ကြည်ညိုဖွယ်နေရာထူးများ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း ၂၀၀၄ ခု၊ မတ်လ စာ ၂၅ -၂၈) (၅) မြင့်လွင် (ဟင်္သာတ) တောရပ်မှီသည့် ဆရာတော်ကြီးသုံးပါး၏ မပုပ်မသိုးအလောင်းတော်များ၊ ဂန္ထိရမဂ္ဂဇင်း၊ ၂၀၀၅ ခု၊ ဖေဖော်ဝါရီလ အမှတ် ၁၁၅ ၊ စာ ၃၈ - ၄၃ ) (၆) ဆရာစန္ဒြ ဘဝခရီးနှင့် အတွေ့အကြုံများ စာအုပ်စာမျက်နှာ ၃၃၂ - ၃၃၃၊ (၇) မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊ အတွဲ) ၄/၃၆။ ၄/၃၇။ ၄/၁၆၄။

အထက်ပါဆောင်းပါးမှာ - မသိသူကျော်သွား၊ သိသူဖော်စား၊ ကျွန်တော် ဆက်ရေးချင်သော ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး၊ ပိန္နဲကွင်းဆရာတော် ဦးကလျာဏ (ပထမပိုင်း) အချစ်ဂျာနယ်၊ အတွဲ ၄၊ အမှတ် ၃၆၊ ၂၇-၁၁-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။ ပိန္နဲကွင်းဆရာတော်ဦးကလျာဏ(ဒုတိယပိုင်း)အချစ်ဂျာနယ်၊ အတွဲ ၄၊ အမှတ် ၃၇၊ ၁၂-၁၂-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။ ပိန္နဲကွင်းဆရာတော် ဦးကလျာဏ (တတိယပိုင်း)အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၃၈၊ ၁၉-၁၂-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

ရဟန္တာဘုန်းတော်ကြီး ဦးသီလကိုယ်တော်တိုင်က တို့ထက်သာသည်ဟု မိန့်တော်မူခဲ့သော

# ရေစကြိုမြို့ ဂူဖြူတောရ ဆရာတော်ဘုရားကြီး

အေဒီ ၁၈၂၈ – ၁၉၁၉ ( ၁၁၉၀– ၁၂၈၁ )



တော်ဝင်မြိုး



ရဟန္တာဟုကျော်ကြားသော ဘုန်းတော်ကြီး အရှင်ဦးသီလအကြောင်းအရာ ထေရုပ္ပတ္တိက မြန်မာပြည်နယ်နိမိတ်ကိုကျော်လွန်၍ ကမ္ဘာအထိသိပြီးဖြစ်လေသည်။ မြန်မာ့သာသနာကို ကမ္ဘာ့သာသနာဖြစ်အောင် ပို့ဆောင်တော်မူသော ရဟန္တာမထေရ်မြတ်ကြီးများဖြစ်လေသည်။ ဦးသီလ၏ မဟာထေရုပ္ပတ္တိကို မြန်မာ့စွယ်စုံကျမ်းတွင်ဖတ်ရှုနိုင်ပါသည်။

(ကျမ်းကိုး၊ မြန်မာ့စွယ်စုံကျမ်း အတွဲ ၁၃ ၊ စာ ၁၃၂-၁၃၄ ကို ကြည့်ပါ။)

> **ရဟန္တာ ဘုန်းတော်ကြီး ဦးသီလကိုယ်တော်တိုင်က "ဂူဖြူတောရ ဆရာတော်ဘုရားကြီးသည် တို့ထက်သာသည်"ဟု မိန့်ကြားတော်မူကြောင်းသိရပါသည်။**
>
> (ကျမ်းကိုး၊ စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတမထေရ် စီရင်ရေးသားအပ်သော ရွှေကျင်နိကာယ သာသနာဝင်အကျဉ်းနှင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဩဝါဒကထာများ စာအုပ် ၁၉၈၈ ခုနှစ် ထုတ်ကိုတွေ့ရှိ၍ လှန်လှောရှာဖွေရာ စာမျက်နှာ ၃၂၄ တွင် တွေ့ရပေသည်)

ဂူဖြူတောရ ဆရာတော်ဘုရားကြီးသည် အင်းဝမြို့ ဗားကရာတိုက်၌နေစဉ် ပဲခူးတောရဆရာတော် ဦးသီလတို့နှင့်အတူတကွ သိတင်းသုံးတော်မူခဲ့ကြသည်ဟူ၍လည်းသိရပါသည်။ သို့ဖြစ်၍ ဂူဖြူတောရဆရာတော်ကြီး သက်တော်ရှည်စွာ ရှိတော်မူသေးသည်ကို တောရဆရာတော် ဦးသီလသိရှိ၍ ပဲခူးသို့ပင့်ဖူးသည်။ ပဲခူး၌ မဏ္ဍပ်ကနားထိုး၍ ကြိုဆိုကြသည်။

> ထိုကာလတွင် အထက်ပါအတိုင်း ထိုရဟန္တာ ဘုန်းတော်ကြီးဦးသီလ ကိုယ်တော်တိုင်က "ဂူဖြူတောရဆရာတော်ဘုရားကြီးသည် တို့ထက်သာသည်"ဟု မိန့်ကြားတော်မူကြောင်း သိရှိရခြင်းဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၂၄)

ဂူဖြူတောရဆရာတော်ဘုရားကြီး အရှင်မေဓာသည် သုတ္တန်, ဝိနည်း, အဘိဓမ္မာ, ပိဋကတ်သုံးရပ်လုံးကိုပင် ထိုးဖောက်တတ်မြောက်အောင် လေ့လာသင်ကြားတော်မူခဲ့၏။

သို့ရာတွင် ဝိနည်းပိဋကတ်၌သာ၍ စိတ်ဓာတ်ထက်သန်အောင်မူသည်ဖြစ်ရာ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ အပါအဝင် ဝိနည်းငါးပါးကျမ်း ပါဠိတော်ကို အဋ္ဌကထာနှင့်တွဲ၍ အခေါက်ပေါင်း ၅၂ ခေါက် ပို့ချတော်မူခဲ့ သည်ဟုသိရသည်။ ၅၂ ခေါက်လုံး နိသျလွတ်, ဒေါင်းဒေါင်းပြေးပို့ချတော်မူသည်။ ပဋိပတ်၌လည်း အထုံဝါသနာပါတော်မူသဖြင့် ဝိသုဒ္ဓိမဂ်အဋ္ဌကထာကိုလည်း အကြိမ်များစွာ ပို့ချတော်မူသည်ဟူ၏။

ဂူဖြူတောရ ဆရာတော်ဘုရာကြီးသည် ပိဏ္ဍပါတ်, တိစီဝရိတ်, အာရညကင်, သပဒါနစာရိကစသော ဓုတင် တို့ကိုလည်း အမြဲဆောက်တည်တော်မူသည်။ သက်တော် ၉၁ ရဟန်းသိက္ခာဝါတော် ၇၂ ဝါ ပျံလွန်တော်မူခါနီး ၁၁ ရက်မျှသာ ပိဏ္ဍပါတ်ဓုတင် ပျက်တော်မူသည်ဟုသိရပါသည်။

ဂူဖြူတောရ ဆရာတော်ဘုရားကြီးအကြောင်းကို အတိသုဒ္ဓါရုံ ဆရာတော်ဘုရားက အောက်ပါအတိုင်း မိန့်ကြားခဲ့ပါသည်။

> **ဂူဖြူတောရဆရာတော်ကြီးသည် ထီးမဆောင်း, ယပ်မဆောင်းဘဲ ထန်းရွက်အတိုင်းသာ ကိုင်ကောင်းရုံပြုပြင်၍ ကိုင်တော်မူသည်။ ဆွမ်းခံရာမှရသော ဆန်ဆွမ်းကို သံဃာများအားကျွေး၍ ပြောင်းဆန်ဆွမ်းကို မိမိသုံးဆောင်တော်မူသည်ဟု အတိသုဒ္ဓါရုံဆရာတော် မိန့်ကြားတော်မူလေသည်။**

(ကျမ်းကိုး၊ ယင်းစာ ၃၂၅)



ဂူဖြူ ဆရာတော်ဘုရားကြီး ပဲခူးသို့ ကြွလာပုံ၊ ရဟန္တာဘုန်းတော်ကြီး ဦးသီလနှင့် တွေ့ဆုံပုံတို့မှာ သာသနာ့သမိုင်းဝင် မှတ်တိုင်ကြီးဖြစ်ပါသည်။

ဘုန်းတော်ကြီး ဦးသီလ ပဲခူးသို့ရောက်၍ လိပ်ပြာကန်ကျောင်း၌ သီတင်းသုံးနေစဉ် အထက်မြန်မာပြည် ပခုက္ကူရေစကြိုနယ် ဂူဖြူတောရတိုက်မှ ပခန်းဆရာတော်ကြီးသည် ရေလမ်းဖြင့် ရန်ကုန်မှလှည့်၍ ပဲခူးသို့ရောက်လာ၏။ ဘုန်းတော်ကြီးထက် တစ်ဝါနှစ်ဝါကြီးသည်။ အချင်းချင်းလည်း သတင်းစကားကြောင့် ရှေးကတည်းက အလေးပြုကြသည်။

အင်းဝမြို့ ဗားကရာတိုက်၌ ဂူဖြူတောရဆရာတော်ကြီးနှင့် ဘုန်းတော် ဦးသီလတို့ အတူတကွ တစ်တိုက်တည်းနေခဲ့ဖူးသည်၊ သိကျွမ်းဖူးသည်ကို မသိသောကြောင့် (အချင်းချင်း သတင်းစကားဖြင့် ရှေးကတည်းက အလေးပြုကြသည်)ဟု ဆိုခြင်းဖြစ်သည်။

ဂူဖြူဆရာတော်သည် ပဲခူးသို့ ကြွတော်မူရာတွင် ရထားမစီးဘဲ လှေဖြင့်သာကြွတော်မူသည်ဟု သိရပါသည်။

အမှန်မှာ သိကျွမ်းဟောင်းလည်းဖြစ်, အယူသီလ တူမျှသူချင်းလည်းဖြစ်၍ ဘုန်းတော်ကြီးဦးသီလက ပင့်သောကြောင့် ပဲခူးသို့ မီးရထားမစီးဘဲ လှေဖြင့်ကြွလာခြင်းဖြစ်သည်။

(ကျမ်းကိုး၊ ယင်းစာ ၃၂၈)

ဘုန်းတော်ကြီးဦးသီလ မီးရထားစီးသည်နှင့် စပ်လျဉ်း၍ ပခန်းဆရာတော်က မိန့်တော်မူပုံမှာ အံ့သြကြည်ညိုဖွယ်ရာဖြစ်ပါသည်။

ပခန်းဆရာတော်ကြီးက ဘုန်းတော်ကြီး ဦးသီလအား "မီးရထားစီးသည်ဟု ကြားရသည်။ ဟုတ်လေသလား"ဟု အပြစ်တင်စကား မိန့်ကြားတော်မူသတတ်။

"အုတ်တွင်း သိမ်သမုတ်သွားရာမှစ၍ စီးမိပါပြီ ဆုံးမတော်မူပါ နာခံပါမည်" လက်အုပ်ချီလျက်ဝန်ခံတော်မူ၏။

"မကျန်းမမာ ဂိလာနဖြစ်လျှင် အပြစ်မဆိုသာပေဘူး၊ တပည့်တော်ဖြင့် ကျန်းမာပါသေး၏"ဟု မိန့်သတတ်။ ဘုန်းတော်ကြီးကို စင်လျက် အပြစ်တင်စကားရဲဝံ့စွာ မိန့်ကြားသော ပခန်းဆရာတော်ဘုရားကြီး၏ သီလ, သမာဓိ, ဂုဏ်တော်တို့ကိုလည်း သောင်းသောင်းဖြဖြ ချီးမွမ်းအံ့သြကြည်ညို ဖြတ်နိုးသံသည် တစ်ခဲနက် ပဲ့တင်ထပ်မျှရှိသောဟူ၏ ဤသို့ဖတ်ခဲ့ရပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၂၈)

ဂူဖြူဆရာတော်ဘုရားကြီးသည် ရွှေကျင်ဂိုဏ်း၌ ရှေးကျကျ မထေရ်ကြီးများတွင် မသိသူမရှိ သလောက်ထင်ရှားသော ဝိနယဓရ အရည်ဝါသီ ဆရာတော်ကြီးတစ်ပါးဖြစ်တော်မူသည်ဟု မှတ်တမ်းရှိပါသည်။

ခင်မွန်ဆရာတော်ကြီးကဲ့သို့ပင် သိက္ခာကာမ လဇ္ဇီပေသလ စာတတ် ဖြစ်တော်မူသည်။ ဓုတင်္ဂရေဂုဏ်၌ ဂူဖြူဆရာတော်ကြီးကပင် သာလွန်တော်မူသည်ဟု သိရသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၁၀)

ဂူဖြူဆရာတော်ဘုရားကြီးသည် ရွှေကျင်ဆရာတော်ကြီး အောက် ၆- ဝါမျှသာ ငယ်၍ ခင်မွန်ဆရာတော်ကြီးနှင့် သက်တူရွယ်တူပင်ဖြစ်တော်မူသည်။ ထိုစဉ်အခါက ပခန်းဂိုဏ်း, ခင်မွန်ဂိုဏ်း,



ဗဂျီဂိုဏ်းဟူ၍ အသီးသီးရှိကြရာ ဂူဖြူဆရာတော်ကြီးသည် ပခန်းဂိုဏ်း၏ အကြီးအမှူးဖြစ်တော်မူလေသည်။ ဤဂိုဏ်းတို့သည် နောင်အခါ ရွှေကျင်ဂိုဏ်းဟု အမည်တစ်မျိုးတည်းဖြစ်သွားကြသည်။ ရွှေကျင်ဂိုဏ်းအနေဖြင့် မထင်ရှားသေးမီအတွင်း၌ သမာဝါဒီအဖြစ် အယူ၊ သီလ တူမျှကြလျက် ရွှေကျင်ဆရာတော်ကြီးနှင့် အတူတကွ ပူးပေါင်း၍ သာသနာတော်၌ သီလသိက္ခာ သန့်ရှင်းစင်ကြယ်သော သံဃတစ်ရပ်ဖြစ်အောင် အားထုတ်လာခဲ့ကြသော ဆရာတော်များတွင် အပါအဝင် ဖြစ်တော်မူကြသည်ဟု သိရပါသည်။

## မွေးဖွားရာ ဇာတိ

၁၈၂၈ ဂူဖြူတောရ ဆရာတော်ကြီးသည် ရေစကြိုမြို့ အနောက်မြောက် - ၃ မိုင် ခန့်ဝေးကွာသော သာစည်ရွာတွင် အဘ ဦးထပ် အမိ မယ်ဒို တို့မှ ဖွားမြင်တော်မူသည်။ ရွှေကျင်ဆရာတော်ကြီး အောက် ၆ - ဝါမျှ ငယ်သည်ဖြစ်၍ အေဒီ ၁၈၂၈ (ဖွားသက္ကရာဇ်မှာ ၁၁၉၀ ပြည့်နှစ်)ဖြစ်ပေမည်။ ငယ်နာမည် ဦးကျော်ရွှဲ၊ ရှင်ရဟန်းဘွဲ့ ဦးမေဓာ ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းစာ ၃၂၃)

## ကျန်စစ်သား၏ ချက်မြှုပ်ရွာ

ငယ်စဉ်က ရေစကြိုမြို့နယ်တွင် ကျန်စစ်သား၏ ဇာတိချက်မြှုပ်ဖြစ်သော ကျောက်ခတ်ရွာသရက်တောဆရာတော်ထံတွင် ပညာသင်ကြားခဲ့ရသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၂၃)

ရဟန်းဖြစ်ပြီးသောအခါ ရေစကြို၌ အလွန်ထင်ရှားသော ဆရာတော် ဦးဝရသမ္ဘောဓိထံ၌ စာပေဆက်လက်သင်ကြားရသည်။ ဆရာတော် ဦးဝရသမ္ဘောဓိထံ၌ ကျမ်းပေါင်းများစွာကို ရေးသားတော်မူသော စာတတ်အကျော်ဆရာတော် တစ်ပါးဖြစ်သည်။

ထို့နောက် အရှင်မေဓာသည် အင်းဝမြို့ ဗားကရာဆရာတော်ဘုရားကြီးထံ၌ ကာလအတော်ရှည်ကြာစွာ ကျမ်းဂန်အရပ်ရပ်ကို နှံ့စပ်အောင် သင်ကြားတော်မူသည်။ ဗားကရာတိုက်၌နေစဉ် ရဟန်းသိက္ခာ ၁၁ - ဝါရလျှင် သံဃာများက အရှင်မေဓာကို ဆရာတော်ဟုပင်ခေါ်သည်။ အရှင်မေဓာသည် သင်ရိုးပါဠိ၊ အဋ္ဌကထာ ပြီးဆုံးအောင် သင်ကြားပြီးသော်လည်း စာမကြည့်တတ်သေးသကဲ့သို့ ဖြစ်နေသောကြောင့် ကစ္စည်းသဒ္ဒါကြီးနိဿယကိုရေးသော နန်းကျောင်းဆရာတော်ထံ ဆည်းကပ်၍ ပါဠိတော်နှင့်တွဲ၍ အဋ္ဌကထာကျမ်းကို အထွက်အတက် စုဒ်စောဒနာစသော သဒ္ဒါရေး အစုံအလင်ဖြင့် တစ်ဝါမျှပြန်၍ လေ့လာသောအခါမှ စာကြည့်တတ်တော့သည်ဟု အမိန့်ရှိဖူးသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၂၃)

ဟူ၍ ဂူဖြူတောရဆရာတော်ဘုရားကြီး၏တပည့်ရင်း သက်တော် ၉၁ နှစ်ရှိ ကျောက်ခတ် ဆရာတော်ဘုရားကြီးက မိန့်တော်မူသည်။



## ကျန်စစ်သား၏ ဇာတိရွာ အစစ်အမှန်

ကျန်စစ်သား မွေးဖွားရာ ဇာတိ အစစ်အမှန်မှာ ကျောက်ခတ်ရွာဇာတိဖြစ်ကြောင်း သိရပါသည်။

> ငယ်စဉ်က ရေစကြိုမြို့နယ်တွင် ကျန်စစ်သား၏ ဇာတိချက်မြှုပ်ဖြစ်သော ကျောက်ခတ်ရွာ သရက်တောဆရာတော်ထံတွင် ပညာသင်ကြားခဲ့သည်။ ကျန်စစ်သားသည် ကျောက်ခတ်ရွာတွင်မွေးဖွားပြီးနောက်မှသာ ပရိမ္မအရပ်သို့ ရောက်သည်ဟု ကျောက်ခတ်ဆရာတော်ကြီး အမိန့်တော်ရှိခဲ့သည်။ ထိုကျောက်ခတ်ရွာ၌ပင် ဂူဖြူဆရာတော်သည် ပညာသင်ကြားခဲ့ပါသည်။
>
> (ကျမ်းကိုး၊ ယင်းစာ ၃၂၃)

ရေစကြိုမြို့ ဂူဖြူတောရ ဆရာတော်ကြီးနှင့် စပ်လျဉ်း၍ထူးခြားမှု များစွာအနက် တပည့်ကောင်း ပန်းပန်ဟူသော စကားကဲ့သို့ ထူးကဲသော တပည့်ကြီးများအနက်တွင် တစ်ပါးသောတပည့်မှာ ပုဂ္ဂိုလ်ထူး မိုးညှင်းတောရ ဆရာတော်ဘုရားကြီး ဦးသုမနဖြစ်ပေသည်ဟုဆိုရပါသည်။

## မိုးညှင်းဆရာတော်၏ ဆရာဖြစ်ခဲ့ခြင်း

မိုးညှင်းတောရ ဆရာတော်ဘုရားကြီး၏ ကမ္မဋ္ဌာန်းအလုပ်ကို အားထုတ်ရာမှာ ရေစကြို ဂူဖြူတောရဆရာတော်ထံမှ နည်းယူခဲ့ကြောင်းသိရပါသည်။ မိုးညှင်းတောရဆရာတော်ဘုရားကြီးနှင့် စပ်လျဉ်း၍ ဆရာ ၃ ပါး ရှိကြောင်းသိရပါသည်။ အနေမှာ သုံးဂိုဏ်းချုပ်၊ အလုပ်မှာ ဂူဖြူ တရားကို လယ်တီနည်းဟူ၍ ဆိုကြပါသည်။

ဝိနည်းအရာ နေနည်း ထိုင်နည်း ဆက်ဆံနည်းကို ခင်မွန် ဗောဓိတောရ သုံးဂိုဏ်းချုပ် ဆရာတော်ထံမှ နည်းယူခဲ့ကြောင်းသိရပါသည်။ ကမ္မဋ္ဌာန်းအလုပ်ကို ရေစကြို ဂူဖြူတောရ ဆရာတော်ထံမှ နည်းယူခဲ့ကြောင်းသိရပါသည်။ လက်တွေ့ပွားများအားထုတ်ရာ ပဋိပတ်တရားနည်းကို လယ်တီဆရာတော်ထံမှ နည်းယူခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ဤသို့လျှင် မိုးညှင်းသမ္ဗုဒ္ဓေ စေတိယကထာ ကျမ်းပြုဆရာ (အရှင်သုမနဓမ္မာစရိယ)က မိမိ၏ကျမ်း၊ ၁၉၉၀ ပြည့်နှစ်၊ ဇူလိုင်လ ထုတ် ၊ စာမျက်နှာ ၁၀၄၊ ၁၀၅ တို့တွင် ဖော်ပြခဲ့ပါသည်။)

မိုးညှင်းဆရာတော် မထေရ်မြတ်သည် ခင်မွန်ဗောဓိတောရ သုံးဂိုဏ်းချုပ် ဆရာတော်ကြီးထံမှ ကျင့်သုံးဖွယ် အသွယ်သွယ်တို့ကို နည်းယူမှတ်သားပြီးသောအခါ မုံရွာမြို့သို့ ခရီးတစ်ထောက် လှမ်းခဲ့ပြန်သည်။ မုံရွာမြို့မှ တစ်ဖန် အနီးရှိ ဂူဖြူတောရ ဆရာတော်ဘုရားကြီးထံသို့ ချဉ်းကပ်ရန် လှေကြုံစီးပြီး ခရီးဆက်လိုက် ပြန်ပါသည်။

ရေစကြိုမှ ဂူဖြူတောရ ဆရာတော်ဘုရားကြီးကား အကျင့်အရာတွင် အလွန်ကျော်ကြားသော ဆရာတော်ဖြစ်သည်။ ဝိနယဓရတောင်ရေစသည့် ဂုဏ်အင်ဖြင့် အလွန်ထူးချွန် ထင်ရှားသဖြင့် အလွန်လေးစားထိုက်သော ရွှေကျင်နိကာယဝင် ဆရာတော်တစ်ပါးလည်းဖြစ်သည်။

ပဋိပတ်အကျင့်ကို နေ့ညမပြတ် တရစပ် အားထုတ်သည်။ လူတွေ့မခံ စကားမပြောဘဲ အလုပ်လုပ်သည်ကို အထူးသဖြင့် ကျောင်းနံရံ ဟိုဘက်



သည်ဘက် ကြိုးတန်းထားပြီးလျှင် ထိုကြိုးတန်း၌ ဝါးလုံးဖောက်ဆွဲကာ ထိုဝါးလုံးကို လက်ကိုင်ပြု၍ စကြိုသွားရင်းပင် အိပ်ပျော်သွားတတ်သည်။ ထိုအခါ ဒိုင်းခနဲ တစ်ဖက်နံရံကို တိုက်မိမှ ဩော် ဒုက္ခ ဒုက္ခ ထိနမိဒ္ဓက တကယ်နှိပ်စက်လှပါလားဟု ညည်းတွားကာ စကြိုပြန်လျှောက်သည်။ ဤသို့ဖြင့် အရဟတ်တက်သည်အထိ အားထုတ်သည်။

( ကျမ်းကိုး၊ အရှင်သုမန၊ စာ ၁၂၅ )

ထိုသို့ အားထုတ်တတ်လှသောကြောင့် တစ်နယ်လုံးရှိ ရဟန်းရှင်လူအပေါင်းတို့က ရဟန္တာကိုယ်တော်ကြီးဟူ၍ပင် ချီးကျူးသမုတ်ကြသည်။ မိုးညှင်း မထေရ်မြတ်သည် ထိုဂူဖြူဆရာတော်ကြီးထံ၌ သုံးလတိတိ နည်းခံ၍ အားထုတ်လေသည်။

(ကျမ်းကိုး၊ ဤသို့လျှင် မိုးညှင်းသမ္ဗုဒ္ဓေ စေတီယကထာ ကျမ်းပြုဆရာ(အရှင်သုမနဓမ္မာစရိယ)က မိမိ၏ကျမ်း ၊ ၁၉၉၀ ပြည့်နှစ်၊ ဇူလိုင်လထုတ် ၊ စာမျက်နှာ ၁၀၄၊ ၁၀၅ တို့တွင် ဖော်ပြခဲ့ပါသည်။)

ဤသည်ကို အကြောင်းပြု၍ ကြည်ညိုလှသဖြင့် ကျွန်ုပ်တို့ကလည်း ရေစကြိုမြို့ ဂူဖြူတောရဆရာတော်ဘုရားကြီးအား ရဟန္တာကိုယ်တော်ကြီးဟု ပူဇော်လိုက်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း ၁၀၅)

မိုးညှင်း ထေရာပဒါန် (၈၃)၌ နေရင်း ဆရာတော် ဦးကောဝိဒက အောက်ပါအတိုင်း ရေးထား၏ဟုသိရပါသည်။

အားထုတ်ပုံ ပြင်းထန်လွန်း၍ ဂူဖြူဆရာတော်ကြီးကို တစ်နယ်လုံးက ရဟန္တာဟုသမုတ်ကြလေသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ ခု၊ မေလ နဝမအကြိမ်၊ ဗုဒ္ဓအသံ စာပေ၊ စာ ၁၉၈)

၁၉၁၉ ဆရာတော်သည် သက်တော် ၉၁ နှစ် အေဒီ ၁၉၁၉ (၁၂၈၁ ခုနှစ်)တွင် ပျံလွန်တော်မူလေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၀၀)

(ကျမ်းကိုး၊ ဆရာတော်ရေးသား ပြုစုသော ကျမ်းနှစ်ကျမ်း ရှိပေသည်။ လွန်ခဲ့သော အနှစ်ငါးဆယ်ခန့်က မန္တလေးဓားတန်း ဂုဏဝတီ ပုံနှိပ်တိုက်မှ တစ်ကြိမ်၊ ၁၃၂၂ ခုနှစ်က သုဓမ္မဝတီတိုက်မှ တစ်ကြိမ် ရိုက်ဖူး၏။ ဒုတိယ အကြိမ်ကား ရန်ကုန် ရွှေကြက်ယက်ကျောင်း ဆရာတော် ဦးဝိသုဒ္ဓ ဂူဖြူဆရာတော်ဘုရားကြီး၏ မြေးတော်က ရိုက်နှိပ်လှူဒါန်းရာ ဓာတ်ပုံကိုပါ ဖူးတွေ့ရပေသည်။ ကျမ်းအမည်မှာ ဒိဋ္ဌိဝိဇ္ဇောဒ ပကာသနီနှင့် ဓာတုဘေဒဝိနိစ္ဆယကျမ်းများ ဖြစ်သည်ဟု ဆရာဦးဌေးလှိုင်က မှတ်တမ်းတင်ထားပါသည်)

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၀၀)

အထက်ပါ ဆောင်းပါးမှာ - မသိသူကျော်သွား၊ သိသူဖော်စား၊ ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး ဂူဖြူတောရဆရာတော်ဘုရားကြီး၊ အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၄၀၊ ၂-၁-၂၀၀၆ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

ပရိနိဗ္ဗာန်ပြုတော်မူသောအခါ နတ်များလာဖူး၍ လူကနတ်ကို မြင်ကြရသည်ဆိုသော ရဟန္တာအရှင်မြတ်ကြီး

# ဟန်လင်းသစ်ဆိမ့်ကြီး ဆရာတော်အရှင်ဇဝန

အေဒီ ၁၈၃၁ – ၁၈၉၄ ( ၁၁၉၃ – ၁၂၅၆ )





ဟန်လင်းအနီးတွင် သစ်ဆိမ့်ကြီးရွာဟူ၍ရှိ၏။ ထိုသစ်ဆိမ့်ကြီးရွာမှာ ရဟန္တာအရှင် ဦးဇဝနနှင့် ညီတော် ဦးဝိသုဒ္ဓါစာရတို့၏ ကျော်စောသတင်းကို ကြားသိရသည်မှာ ဓမ္မာစရိယဦးဌေးလှိုင်၏ ကျေးဇူး ဖြစ်၏။ သစ်ဆိမ့်ကြီးရွာကား ဟန်လင်းမြို့၏ အရှေ့ဘက် ၈ မိုင်ခန့်ကွာဝေးသော ရောဝတီမြစ်အနောက် ဘက်ကမ်း၌တည်ရှိ၏။ ပုဂံခေတ်ကပင် ထင်ရှားသောရွာကြီးဖြစ်သည်။

## လေးရွာရှင် ကျောက်စာ

နောင်တော် ညီတော်နှစ်ပါးရှိ၏။ နောင်တော်သည် ဦးဇဝနဖြစ်၏။ ညီတော်သည် ဦးဝိသုဒ္ဓါစာရ ဖြစ်၏။ နောင်တော်ဆရာတော်ဦးဇဝန၏ အလောင်းတော်မှ ဓာတ်တော်များကျ၍ စေတီတည်ထားပုံနှင့်တကွ ကြည်ညိုဖွယ်ဖြစ်အံ့သြဖွယ်များကို ညီတော်ဦးဝိသုဒ္ဓါစာရက ပါဠိဂါထာ ၃၁ ဂါထာနှင့် စုဏ္ဏိယ (စကားပြေ)တို့ကို အနက်မြန်မာပြန်နှင့်တကွ ကျောက်စာရေးထိုးထားခဲ့ သည်။ ထိုကျောက်စာကို "လေးရွာရှင်စေတီ ကျောက်စာ"ဟုခေါ်၏။

## စစ်ကိုင်း ဝတ်ချက်မင်းကျောင်းဆရာတော်နှင့် အကျွမ်းဝင်ကြခြင်း

ကျောက်စာ ရေးထိုးသူ ဆရာတော် ဦးဝိသုဒ္ဓါစာရသည် ပုဂ္ဂိုလ်ထူးကြီး ဖြစ်၏။ ဦးဝိသုဒ္ဓါစာရနှင့် စစ်ကိုင်းဝတ်ချက်မင်းကျောင်း ဆရာတော်တို့သည် အလွန်ချစ်ကျွမ်းဝင်ကြကြောင်းသိရပါသည်။

(ကျမ်းကိုး၊ သစ်ဆိမ့်ကြီးရဟန္တာ အရှင်ဇဝန မဟာထေရ်အကြောင်းကို မှတ်တမ်းတင် ထားသော ကျောက်စာမှာ လေးရွာရှင်စေတီတော်၌ ပါဠိမြန်မာ နှစ်ဘာသာဖြင့် ရေးထိုး လေသည်။ ရှေ့မျက်နှာ၌ အကြောင်းရေ ၅၃ ကြောင်းရှိ၏။ ကျောဘက်မျက်နှာ၌ အကြောင်း ၅၀ ရှိ၏။ ထိုကျောက်စာကို လေးရွာရှင်စေတီကျောက်စာဟုခေါ်ပါသည်။ သစ်ဆိမ့်ကြီးရွာ ၏ အနောက်တောင်ဘက်၌တည်ရှိပါသည်။ ထိုအကြောင်းကို ဓမ္မာစရိယဦးဌေးလှိုင်သည် မိမိ၏ ဓမ္မဒူတ (သာသနာ့ဝံသကထာ) စာမျက်နှာ ၃၂၄ ၊ ၃၂၅၊ ၃၂၆၊ ၃၂၇ တို့တွင် ဖော်ပြထားပါသည်။ ဖတ်ကြည့်ပါ။)

## ညီတော် ဦးဝိသုဒ္ဓါစာရ ကိုယ်တိုင် ရဟန္တာဦးဇဝန ကျောက်စာရေးထိုးခဲ့ခြင်း

ထို ဦးဝိသုဒ္ဓါစာရသည် မဏိသာရ မဉ္ဇူသာနိဿယ စသော ကျမ်းပေါင်းများကို ပြုစုခဲ့သော ကျမ်းပြုဆရာတော်လည်းဖြစ်၏။ ထိုအရှင်ကိုယ်တိုင် ပါဠိဂါထာ ၃၁ ဂါထာနှင့် စုဏ္ဏိယ(စကားပြေ) တို့ကို အနက်မြန်မာပြန်နှင့်တကွ ကျောက်စာရေးထိုးထားခဲ့သည်။ "လေးရွာရှင် စေတီကျောက်စာ" ဟုခေါ်၏။ ထိုကျောက်စာအရ ရဟန္တာဦးဇဝန အကြောင်းကို သိရခြင်းဖြစ်ပါသည်။

ရဟန္တာအရှင်မြတ်ကြီး ဖြစ်တော်မူသော အရှင်ဇဝနမဟာထေရ်၏ ဓာတ်တော်တို့ကို ကျောက် တလားကြီးတွင် ထည့်သွင်း၍ သစ်ဆိမ့်၊ ရွှေကူကြီး၊ လှေပိုးဆိပ်နှင့် ရွာသစ်ရွာ လေးရွာမှ ဒကာ ဒကာမ တို့က စေတီတည်ထားကိုးကွယ်သောကြောင့် ထိုဆရာတော်ကို လေးရွာရှင် ဆရာတော်ဟူ၍ လည်းကောင်း၊ ထိုစေတီတော်ကို လေးရွာရှင်စေတီဟူ၍လည်းကောင်း ခေါ်ဝေါ်ကြလေသည်။

## ရှမ်းကလေးကျွန်းဆရာတော်၏ တပည့်ဖြစ်ခြင်း

ဆရာတော် အရှင်ဇဝနသည် မင်းတုန်းမင်းတရားကြီးလက်ထက် ပဋ္ဌမသင်္ဂါယနာ ခေတ်တွင် ထင်ရှားတော်မူခဲ့သော ရှမ်းကလေးကျွန်းဆရာတော် အရှင်နန္ဒ၏ တပည့် ဖြစ်၏။



(ကျမ်းကိုး။ ရှမ်းကလေးကျွန်း ဆရာတော်အကြောင်းကို ရွှေကျင်နိကာယ စာမျက်နှာ ၈၂ - ၈၃ ကို ကြည့်ပါ။)

## အရှင်ဇဝန၏ မဟာထေရုပ္ပတ္တိကထာ

၁၈၃၁ ခမည်းတော် မယ်တော်တို့ကား ရွှေကူကြီးရွာ ဦးပြား မယ်ကတူးတို့ ဖြစ်ကြ၏။ အေဒီ ၁၈၃၁ (မွေးသက္ကရာဇ်မှာ ၁၁၉၃ ခု) ဖြစ်ဖွယ်ရှိ၏။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၏ ဓမ္မဒူတ သာသနာ့ဝံသကထာ စာမျက်နှာ ၃၁၁-၃၂၇)

## ဆရာတော်၏ ကမ္မဋ္ဌာန်းကျောင်းငယ်ကလေး

ဆရာတော်သည် သံတောင် ၁၇၅ တောင်ရှိ ရွှေဘိန်းကြီးခေါ် ပွတ်စေတီတော်ကြီး၏ မြောက်ဘက် စောင်းတန်းအဆင်း ကမ္မဋ္ဌာန်းကျောင်းငယ်ကလေး၌သာ အမြဲသီတင်း သုံးတော်မူလေ၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၅)

## ဆရာတော်ကို နဂါးမင်း အမြဲခစားခြင်း

ဆရာတော်၏ ကမ္မဋ္ဌာန်းကျောင်းကလေးအနီး၌ သံတောင် ၁၇ တောင် လုံးပတ် ၃ ထွာရှိ သုရူပမည်သော နဂါးမင်း အမြဲမပြတ်စောင့်ရှောက် နေထိုင်လျက် ရှိကြောင်းကိုလည်း ဖော်ပြထား၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၆)

## သုရူပ နဂါးမင်း စုတိပြတ်ကြွေ သေလွန်ခြင်း

၁၈၉၄ ဆရာတော်သည် ၂၃ နိုဝင်ဘာလ ၁၈၉၄ ခု (၁၂၅၆ ခု တန်ဆောင်မုန်း လပြည့်ကျော် ၁၂ ရက်)သောကြာနေ့နံနက် ၈ နာရီအချိန် သက်တော် ၆၃ နှစ်အရောက် ထိုကမ္မဋ္ဌာန်းကျောင်းကလေး၌ပင် ရုတ်တရက်ဖြစ်ပေါ်လာသောရောဂါဖြင့် ခန္ဓာဝန်စွန့်တော်မူခဲ့၏။ နှစ်ရက်အကြာ သုရူပနဂါးမင်းလည်း အလောင်းတော်၏ အနီးအပါး၌ စုတိပြတ်ကြွေ သေလွန်ရှာလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၆)

## လူက နတ်ကို မြင်ခြင်း၊ နတ်က လူကို မြင်ခြင်း အံ့ဖွယ်

ထိုအခါ "ရဟန္တာအရှင်ဇဝနမထေရ်ကြီး ပရိနိဗ္ဗာန်ပြုလေပြီ"ဟု တစ်ခဲနက် အုတ်အုတ်ကျက်ကျက်ဖြစ်စေ၏။ ထိုအသံကြီးကို ကြားရသဖြင့် လူအများ ကျောင်းသို့ သွားကြည့်ကြရာ အမှန်ပင်ဖြစ်နေ၏။ ထိုအခါမှ လူအများသိရှိကာ လာရောက်ပူဇော်ကြသည်။ ကောင်းကင်မှနတ်များ လာရောက်ပူဇော်ကြသည် ကိုလည်း ရှင်လူများ မြင်တွေ့ကြရသည်။ လူကနတ်ကိုမြင်၏။ နတ်ကလည်း လူကို အပြန်အလှန် မြင်ကြရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၂၆)



## ရုပ်ကလာပ်တော်မှ ဖြူ နီ ညို ပြာ ရောင်စုံ ဖြာခြင်း

ရဟန္တာအရှင် ဦးဇဝန၏ အလောင်းတော်ကို ၁ နှစ်နှင့် ၂ လကြာမျှ မီးမသင်္ဂြိုဟ်သေးဘဲထားရှိရာ ၁ နှစ် နှင့် ၂ လ တိုင်တိုင်ပင် ညစဉ်ညတိုင်း အလောင်းတော်မှ ဖြူနီညိုပြာ အဝါအစိမ်း ခပ်သိမ်းသော အလင်းရောင်တို့ ကွန့်မြူးသည်ကို ရှင်လူအများဖူးတွေ့ကြရလေသည်ဟု ကျောက်စာ၌ ဖော်ပြပါထားသည်။

ရဟန္တာအရှင် ဦးဇဝန၏ အလောင်းတော်မှ မွှေးကြိုင်သော အနံ့များ ထွက်နေ၏။ ခေါင်းနှင့်တကွ အလောင်းတော်ကို မချီရာ၌ ထူးထူးခြားခြား ပေါ့နေခြင်းရှိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၆)

## ရေတော်၏ အစွမ်း

ရဟန္တာအရှင် ဦးဇဝန ဆရာတော်သုံးစွဲသွားသော ပရိက္ခရာ စသည်ကို (ရေစိမ်၍) သောက်လျှင် လိမ်းလျှင် သောက်ရုံ လိမ်းရုံမျှဖြင့် ရောဂါဟူသမျှ ပျောက်ကင်းသည်ဟူသော ထူးခြားမှုများရှိကြောင်းကိုလည်း ဖူးတွေ့ကြရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၇)

## ရဟန္တာကြီးနှင့်အတူ နဂါးမင်းကြီး ရုပ်ကလာပ်ကို ကြေးခေါင်းသွင်းခြင်း

ရဟန္တာအရှင် ဦးဇဝန၏ အလောင်းတော်ကို ကျောက်သလင်းခေါင်း၌ သွင်းထားပူဇော်သောနေ့မှာပင် ရဟန္တာအရှင်ဦးဇဝနကို စောင့်ရှောက်လျက်ရှိသော နဂါးမင်း၏ ရုပ်ကလာပ်ကိုလည်း ကြေးခေါင်းအတွင်း သွတ်သွင်းကြသည်ဟုသိရှိရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၂၇ )

## ဓာတ်တော်များကျခြင်း

၁၈၉၅ ၂၆ ဒီဇင်ဘာ ၁၈၉၅ ခု (၁၂၅၇ ခု ပြာသိုလဆန်း ၁၂ ရက်) ကြာသပတေးနေ့ မွန်းတည့်ချိန်တွင် ကျောက်သလင်းခေါင်းမှ ထုတ်ဆောင်၍ မီးသင်္ဂြိုဟ်ကြရာ ဓာတ်တော်များကို ထူးခြားစွာဖူးတွေ့ရလေသည်။ ထိုဓာတ်တော်တို့ကို ကျောက်သလင်း ခေါင်း၌ထည့်ထားကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၇)

## နဂါးမင်းရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ခြင်း

၎င်းနောက် နဂါးမင်း၏ ရုပ်ကလာပ်ကိုလည်း တစ်ပြိုင်နက် နံ့သာထင်းများဖြင့် မီးသင်္ဂြိုဟ်ကြသည်ဟု သိရပါသည်။

၁၈၉၆ မီးသင်္ဂြိုဟ်ရာအရပ်၌ပင်လျှင် ၂ စက်တင်ဘာလ ၁၈၉၆ ခု ၊ (၁၂၅၈ ခု ဝါခေါင်လ



ပြည့်ကျော် ၁၀ ရက်နေ့) ဗုဒ္ဓဟူးနေ့တွင် "လေးရွာရှင်" အမည်ဖြင့် ၃၅ ပေရှိ စေတီတစ်ဆူတည်၍ စေတီမြောက်ဘက်လိုဏ်အတွင်း၌ ကျောက်ခေါင်းကြီး ထည့်သွင်း ပူဇော်ထားကြသည်။ ထိုမှတစ်ပါး ပုလဲအဆင်းရှိသော ဘုရားရှင်၏ သရီရဓာတ်တော် အဆူရေငါးဆယ်နှင့် ရဟန္တာဓာတ်တော် တစ်ပြည်သားခန့်တို့ကို လည်းကောင်း၊ ရုပ်ပွားဆင်းတုတော်များကို လည်းကောင်း၊ ပစ္စယာအဆင့်ဆင့် ဌာပနာ သွင်းထား ပူဇော်ကြကုန်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၇)

ဆရာတော် ဦးဝိသုဒ္ဓါစာရ၏ ကျောက်စာကျေးဇူးကြောင့် အရှင်ဇဝန ရဟန္တာအရှင်မြတ်ကြီး၏ ကျေးဇူးဂုဏ်ကို ကြည်ညိုရပေ၏။

(ကျမ်းကိုး၊ ထိုကျောက်စာသာ မရှိပါလျှင် ထိုမျှလောက်ကိုပင် သိရှိကြည်ညိုခွင့်ရကြမည် မဟုတ်ပေဟူ၍ ဆရာဦးဒွေးလှိုင်က မှတ်တမ်းတင်ထားပါသည်။ ထိုဟန်လင်းသစ်ဆိမ့်ကြီး ဆရာတော်ညီနောင် ရဟန္တာအရှင်ဇဝနနှင့် အရှင်ဝိသုဒ္ဓါစာရတို့၏အကြောင်း တစေ့တစောင်းတို့ကို မန္တလေးသဘော်တန်း ဘုရားဒါယကာဦးလှဖေ ရေးသားပြုစုသော သစ်ဆိမ့် အတိတ်သာသနာတော် သမိုင်းစာအုပ်တွင်လည်းကောင်း၊ စူဠမုနိ ရုပ်ရှင်တော်မြတ် သမိုင်းစာအုပ်တွင်လည်းကောင်း ဓမ္မာစရိယဦးဒွေးလှိုင်၏ ဓမ္မဒူတ သာသနာ့ဝံသကထာ စာမျက်နှာ ၃၁၁ - ၃၂၇ တို့တွင်လည်းကောင်း စုံစုံစေ့စေ့ဖတ်ရှုနိုင်ပါသည်။ ယခု ကောက်နုတ်ချက်တို့အရပင်လျှင် အလွန်ကြည်ညို ဖွယ်ရာရှိလှပါပြီ။ ပို၍သိရလျှင်ကား ပို၍ကြည်ညိုဖွယ်ရာဖြစ်ပါလိမ့်မည်။ ဆက်လက်ရှာဖွေကြပါဦး။)

အထက်ပါ ဆောင်းပါးမှာ - မသိသူကျော်သွား၊ သိသူဖော်စား၊ ကျွန်တော် ဆက်ရေးချင်သော ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ ပေါင်းချုပ်ကြီး အရှင်ဝိသုဒ္ဓါစာရ၊ အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၄၁၊ ၉-၁-၂၀၀၆ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

ဟန်လင်းသစ်ဆိမ့်ကြီးဆရာတော် ရဟန္တာအရှင်မြတ်ကြီး အရှင်ဇဝန၏ ညီတော်

# ရဟန်းထူး အရှင်ဝိသုဒ္ဓါစာရ





ဆရာတော် ဦးဝိသုဒ္ဓါစာရသည် ရဟန်းထူး ရဟန်းမြတ်ကြီးဖြစ်၏။ ဦးဝိသုဒ္ဓါစာရနှင့် စစ်ကိုင်း ဝတ်ချက်မင်းကျောင်းဆရာတော်တို့သည် အလွန်ချစ်ကျွမ်းဝင်ကြကြောင်းသိရပါသည်။

ဦးဝိသုဒ္ဓါစာရသည် ရှမ်းကလေးကျွန်းဆရာတော်၊ သင်္ဂဇာဆရာတော်၊ ရွှေကျင်ဆရာတော်တို့၏ တပည့်ကြီးတစ်ပါးဖြစ်ကြောင်းသိရပါသည်။

ဦးဝိသုဒ္ဓါစာရသည် မဏိသာရမဥ္ဇူသာနိဿယစသော ကျမ်းပေါင်းများကို ပြုစုခဲ့သော ကျမ်းပြု ဆရာတော်လည်းဖြစ်၏။ ထိုအရှင်ကိုယ်တိုင် ပါဠိဂါထာ ၃၁ ဂါထာနှင့် စုဏ္ဏိယ ( စကားပြေ ) တို့ကို အနက် မြန်မာပြန်နှင့်တကွ ကျောက်စာရေးထိုးထားခဲ့သည်။ "လေးရွာရှင်စေတီကျောက်စာ" ဟု ခေါ်၏။ ထိုကျောက်စာအရ ရဟန္တာဦးဇဝနအကြောင်းကို သိရခြင်းဖြစ်ပါသည်။

ကျောက်စာပြုစုသူ အရှင်ဝိသုဒ္ဓါစာရသည် အလွန်ထူးခြားသောပုဂ္ဂိုလ်ဖြစ်လေသည်။ ထိုဆရာ တော်ကြီးနှင့် မင်းတုန်းမင်းတရားကြီးတို့ အကြောင်းဆက်၍ သာသနာရေးကြိုးပမ်းမှုများမှာ အလွန် ထင်ရှားပေသည်။ ထိုအကြောင်းတို့သည်လည်း အရှင်ပုည အရှင်သုန္ဒရ ရဟန္တာ ၂ ပါးနှင့် ဆက်သွယ် လျက်ရှိပေသည်။

(ကျမ်းကိုး၊ ထိုအကြောင်း တို့ကို ဓမ္မာစရိယ ဦးငွေလှိုင်က ဓမ္မဒူတ စာမျက်နှာ ၃၁၇ - ၃၂၇ တို့တွင်ဖော်ပြထားသည်မှာ အလွန်စိတ်ဝင်စားဖွယ်ရာဖြစ်ပေသည်။ အောက်တွင် ဖတ်ကြည့်ပါ။)

ဆရာတော်ဦးဝိသုဒ္ဓါစာရသည် သစ်ဆိမ့်ကြီးရွာ အနောက်တောင်ထောင့် ဇေတဝန်ကျောင်းကြီး၌ သီတင်းသုံးတော်မူ၏။ ဆရာတော်ဦးဝိသုဒ္ဓါစာရ၏ ဇာတိဖြစ်သော သစ်ဆိမ့်ကြီးရွာအနီးရှိ ရွှေကူကြီးရွာ တွင်ရှိသော ကျောင်းကြီးဖြစ်သည်။

ဆရာတော်ဦးဝိသုဒ္ဓါစာရ၏ ထူးခြားချက်ကား စေတီ, ရုပ်ပွား , ဓာတ်တော်မွေတော်များနှင့် စပ်၍ အထူးစိတ်ပါဝင်စားဟန်ရှိခြင်းဖြစ်သည်။ ဆရာတော်ဦးဝိသုဒ္ဓါစာရသည် ဗုဒ္ဓါနုဿတိ ဘာဝနာ ထက်သန်ပုံရသည်။ ဓာတ်တော်မွေတော်များနှင့်လည်း အလွန်ကံစပ်သည်ဟုဆိုနိုင်ပါသည်။

ဆရာတော်ဦးဝိသုဒ္ဓါစာရ၏ အိပ်မက်များမှာ အလွန်ထူးခြား၏၊ တိကျ၏ဟု ဆိုနိုင်ပါသည်။ အဘယ်ကြောင့်ဆိုသော် ဆရာတော်ဦးဝိသုဒ္ဓါစာရ၏ အိပ်မက်ကိုအကြောင်းပြု၍ ရဟန္တာဓာတ်တော်များ ကို ဖော်ထုတ်နိုင်သောကြောင့်ဖြစ်ပေသည်။ အိပ်မက်အရ ဖော်ထုတ်ပုံမှာ အောက်ပါအတိုင်းဖြစ်သည်။

သစ်ဆိမ့်ရွာ အနောက်ဘက်ရှိ တောထဲ၌ တိမ်မြုပ်လျက်ရှိသော ဂူကြီးလေးလုံးရှိ၏ဟု ဆိုပါသည်။ သက်တော်ထင်ရှား မြတ်စွာဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးနောက် မကြာမီ ကာလတွင် အရှင်ပုညနှင့် အရှင်သုန္ဒရမည်သော ရဟန္တာအရှင်မြတ်နှစ်ပါးတို့ ဘုရား ရှင် ဓာတ်တော်များဌာပနာ၍ တည်ထားခဲ့သည်ဟု အိပ်မက်ထဲတွင် မြင်မက်သော ကျောက်ဖျာကြီးတစ်ချပ်ရှိလေသည်။ ထိုကျောက်ဖျာကြီးဖြင့် ပိတ်ထားသည့် ထူပါရုံ ဓာတ်တော်တိုက်ကြီးရှိကြောင်းကိုလည်း ဆရာတော်က အိပ်မက်မက်ခဲ့လေသည်။ ထိုအိပ်မက်အတိုင်းပင် ဆရာတော်ဦးဝိသုဒ္ဓါစာရသည် ထိုဓာတ်တော် ဓာတ်တိုက်ကို တူးဖော်နိုင်ခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၁၇)

'ထိုရဟန္တာအရှင်မြတ်ကြီးနှစ်ပါးလည်း ဤထူပါရုံစေတီကြီး တည်ထားပြီးနောက် တကောင်းပြည်သို့ ပြန်ကြွသွားကာ ပရိနိဗ္ဗာန်ပြုကြပါသည်'ဟူ၍ အိပ်မက် ထဲတွင် ပါရှိလေရာ ထိုအိပ်မက်အရ တကောင်းမြို့၏ အရှေ့တောင် ၈ မိုင်ခန့်



တွင် ကြာညှပ်ရွာဟူ၍ရှိ၏။ ထိုရွာ၏ အရှေ့မြောက် ၈ မိုင်ခန့် ဝေးသောနေရာတွင် တောင်တစ်တောင်ရှိ၏။ ထိုတောင်ကို ဓာတ်တော်တောင်ဟုခေါ်၏။ ၎င်းအပြင် မြောက်ဘက်အရပ်၌ မြောက်ဓာတ်တော်တောင်ဟုခေါ်သော တောင်တစ်တောင်ရှိ၏ဟု အိပ်မက်မက်၏။ ထိုအိပ်မက်အရ ဆရာတော် ဦးဝိသုဒ္ဓါစာရသည် တောင်ဓာတ်တော်နှင့် မြောက်ဓာတ်တော်တို့ကို ပင်ပန်းခံကာ ရှာကြံခဲ့လေသည်။ ထိုဒေသရှိ မြောက်ဓာတ်တော် ခေါ်သောနေရာတွင် ၈ တောင်ခန့် ကျောက်တုံးကြီးတစ်တုံးရှိ၏။ ထိုကျောက်တုံးကြီးမှာ မြောက်ဘက်သို့ ဦးခေါင်းပြုကာ ရဟန္တာအရှင်မြတ်ကြီးတစ်ပါး လဲလျောင်းကာ ပရိနိဗ္ဗာန်ပြုနေဟန် ပုံသဏ္ဍာန်ရှိကြောင်း ဖူးတွေ့ကြရလေသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယဦးဌေးလှိုင်ရေး ဓမ္မဒူတ စာမျက်နှာ ၁၁၈ )

ဆရာတော်ဦးဝိသုဒ္ဓါစာရသည် အကြိမ်ကြိမ်အိပ်မက်ရ၍ ရှာလေရာ ထိုဂူနှင့် ဓာတ်တော်တိုက်နေရာသို့ အတော်ကြာအောင်မတွေ့နိုင်ဘဲရှိလေသည်။ သို့နှင့် အကြိမ်ကြိမ် လက်လျှော့ပြီး အကြိမ်ကြိမ်ပြန်ခဲ့ရ၏။

နောက်ဆုံးအကြိမ်၌လည်း ကျောင်းသား၊ ကိုရင်၊ ပဥ္စင်းများနှင့်အတူ ခါတိုင်းကဲ့သို့ရှာခဲ့၏။ ထိုနေ့တွင် နေကလည်း ဝင်လုပြီဖြစ်၍ စိတ်ပျက်ပြီးလျှင် ပြန်တော့မည်ဟု ကြံစည်ဆဲတစ်ခဏတွင် မိုးကြီးလေကြီး ရုတ်တရက် ကျလာသဖြင့် သခွတ်ပင်ကြီးတစ်ပင်အောက်၌ မိုးခိုနေရ၏။

မိုးတိတ်သောအခါ လှမ်း၍ကြည့်လိုက်ရာ မလှမ်းမကမ်း မြေပြန့် တစ်နေရာတွင် ပေသီးလုံးကြီးခန့် အပေါက်တစ်ခုမှ မြေခိုးမြေငွေ့ရောင်များ ထွက်နေသည်ကို တွေ့ကြရလေသည်။ ထိုအပေါက်ကြီးကို ဝါးလုံးရှည်ရှည်ဖြင့် ထိုးကြည့်လိုက်သောအခါ ဝါးလုံးတစ်ဆုံးဝင်သွားသည်ကို တွေ့မြင်ရလေသည်။ ထို့ကြောင့်ပင်လျှင် ထိုအပေါက်ကြီးနေရာသည် ဂူဟောင်းကြီးတစ်ခုဖြစ်နိုင်ကြောင်း တွေးတောသိရှိခဲ့လေသည်၊ သို့သော်လည်း နေဝင်ခဲ့သည်ဖြစ်ရကား ဆက်လက်မလှုပ်ရှားတော့ဘဲ ပြန်လာခဲ့ [illegible] လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၇ - ၁

နောက်တစ်ရက်တွင် ရွာထဲမှ ဒကာများကိုပါခေါ်ဆောင်၍ ထိုဂူဟောင်းနေရာကို သွားရေ[illegible] တူးဖော်ခုတ်ထွင်ခဲ့ကြရာ အောက်တွင် ဂူကြီးလေးလုံးရှိကြောင်းတွေ့မြင်ကြရလေသည်။

နောက်မှ သိရသည်မှာ ထိုဂူဟောင်းနေရာများသည် ရှေးသရော[illegible]ခါ ပုဂံခေတ်က သံပျင်မင်းသမီး စာသင်ကြားပို့ချခဲ့သောနေရာဖြစ်သည်[illegible]ဟု သိရှိရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၈)

ဂူများကို တွေ့ရှိပြီးနောက် ယင်းဂူများ၏အနီး အရှေ့တောင်ဘက်တွင် အုတ်စအုတ်ပဲ့များရှိသောနေရာကို အိပ်မက်အရ ဆက်လက်တူးကြပြန်လေသည်။

ထိုနေရာတွင် ထူပါရုံ စေတီဟောင်းနေရာကို တွေ့ကြရလေသည်။ ထိုနေရာ အလယ်တည့်တည့်လောက်ကို စိတ်ကူးဖြင့် မှန်းဆပြီးတစ်ဖန် တူးဖော်ကြပြန်ရာ ခဏကြာသောအခါ အချင်း ၄ ပေ၊ ထု ၅ ပေ ရှိသော ကျောက်ဖျာကြီး တစ်ချပ်ကို အံ့ဩဖွယ်ရာတွေ့ရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၈)



အိပ်မက်ထဲကပြောသည့်အတိုင်း ဌာပနာတိုက်ဖြစ်ရမည်ဟု ဆရာတော်ဦးဝိသုဒ္ဓါစာရသည် ချက်ခြင်း ဆုံးဖြတ်လိုက်ပြီးလျှင် ကျောက်ဖျာကြီးကို လူအားဖြင့် ကုတ်ကော် မ,ကြရာ မ,မရနိုင်ဘဲရှိလေသည်။ သို့နှင့်နေဝင်သွားပြန်လေသည်။

ထို့ကြောင့် ထိုနေရာကိုစောင့်ရှောက်ရန် ညအိပ်စောင့်အဖြစ် လူသုံးယောက် အစောင့်ထားပြီးလျှင် ပြန်လာခဲ့ကြရသည်။

နောက်တစ်နေ့ နံနက်တွင် လူအင်အားနှင့် တစ်ဖန်သွားရောက် ကြပြန်လေသည်။ ထိုအခါ အစောင့်လူများက အူးယားဖားယား ပြေးလာကြပြီးလျှင် ဖြစ်ကြောင်းကုန်စင်ပြောပြသည်မှာ -

> မနေ့ညက လူသံများ လှည်းသံများ ဆူညံနေသည်ဟူ၍ ဖြစ်ပါသည်။ ထိုအကြောင်းကို ဆရာတော်အား လျှောက်လေလျှင် ဆရာတော်ဦးဝိသုဒ္ဓါစာရက 'အေး ငါနှင့် ထိုက်တာ ကျန်ခဲ့လိမ့်မည်'ဟု အမိန့်ရှိ၏။ ထို့နောက် ထိုနေရာသို့ သွားကြည့်ကြရာ လူ အစိတ်သုံးဆယ်အားဖြင့် မ၍မရသော ကျောက်ဖျာကြီးသည် သူ့အလိုအလျောက် ပွင့်နေသည်ကို တွေ့ကြရလေသည်။ ထို့ကြောင့် အစောင့်လူများလည်း အလွန်ကြောက် လန့်လှသောကြောင့် ထိုအနီးအနားသို့ပင် မသွားရဲခဲ့ကြပေ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၉)

**ဆရာတော်သည် ကျောက်ဖျာကြီးအောက်သို့ ရှာဖွေကြည့်ရှုစေရာ ရွှေအဆင်း၊ ပုလဲအဆင်း စသော အဆင်းရောင်စုံရှိသော ဓာတ်တော်ပေါင်းစုံတို့ကို အများအပြားဖူးတွေ့ရလေသည်။**

ထို့သို့သော အံ့ဖွယ်ရာသတင်းထူးကို မင်းတုန်းမင်းတရားကြီးကြားသိတော်မူသောအခါ ဝတ်ချက်မင်းကျောင်းဆရာတော်အား နန်းတော်သို့ပင့်ပြီးလျှင် ဆရာတော်ဦးဝိသုဒ္ဓါစာရထံ ကြွရောက်ပြီးလျှင် အိပ်မက်အရ တူးဖော်ရရှိသော ဓာတ်တော်များကို ခွဲဝေပူဇော်ခွင့်ရရန် လျှောက်ထားပေးပါရန် တောင်းပန်လျှောက်ထားလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၁၉)

မင်းတရားကြီး၏ ဆန္ဒအတိုင်းပင် ဆရာတော်ဦးဝိသုဒ္ဓါစာရက ခွင့်ပြုသဖြင့် ထိုရရှိလာသော ဓာတ်တော်အချို့ကို တည်လက်စဖြစ်သော ရန်ကင်းတောင်ရှိ မဟာကျောက်စေတီ၌ ဌာပနာတော်မူခဲ့လေသည်။

၁၈၇၈ ထိုစဉ်က ၁၂၃၉ ခု (၁၈၇၈ ခုနှစ်) ဓာတ်တော်ပင့်ရန် အခမ်းအနားအစီအစဉ် အမိန့်တော်ပြန်တမ်းကို နေမျိုးစည်သူကျော်ထင်ကပြန်ရသည်။

**ဆရာတော် ဦးဝိသုဒ္ဓါစာရသည် ဗုဒ္ဓဂယာရှိ မဟာဗောဓိမှ ဆံတော် ဓာတ် ၁၆ ဆူကိုလည်း ကိုးကွယ်ရရှိခဲ့လေသည်။ ထိုဆံတော်များမှာ သက်တော်ထင်ရှား ဘုရားရှင်ကိုယ်တော်မြတ်ကြီး၏ ဆံတော်ရှင် အစစ်များဖြစ်သဖြင့် ဆရာတော်ဦးဝိသုဒ္ဓါစာရသည် ယင်းဓာတ်တော်ဆံတော်များကို သူတစ်ပါး မသိအောင် လျှို့ဝှက် ကိုးကွယ်လာခဲ့လေသည်။**

၁၈၇၁ ၎င်းနောက် ၁၂၃၃ ခု ( ၁၈၇၁ ခုနှစ်)တွင် ရွှေညာဏ်တော် အမည်ဖြင့်စေတီတည်၍ မိမိရှိသမျှ လယ်ယာမိုးမြေနှင့် နဝကမ္မပစ္စည်းများအားလုံး စာရင်းပြု၍ ပေထက်သမိုင်း တင်၍လှူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၇ - ၃၂၇)



မဟာဗောဓိမှ ဆံတော်ဓာတ်တော် ၁၆ ဆူ ရပုံမှာလည်း အလွန်မှတ်သားဖွယ်ရာကောင်းလေသည်။ ရရှိပုံမှာ ဤသို့ဖြစ်ပါသည်။

> မင်းတုန်းမင်းတရားကြီးသည် ၁၂၃၀ ပြည့်နှစ် (၁၈၆၉ )တွင် နေမျိုးမင်းလှမင်းထင်စည်သူနှင့် လူငါးဆယ်အဖွဲ့ကို မဇ္ဈိမဒေသ မဟာဗောဓိသို့ လှူဖွယ်ပစ္စည်းများနှင့်စေလွှတ်ခဲ့သည်။ ထိုအဖွဲ့သည် မဟာဗောဓိ အုတ်တိုက်၌ တစ်လခန့်တည်းခိုနေထိုင်ခဲ့လေသည်။
>
> (ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၉)
>
> ထိုစဉ်အခါက နေမျိုးမင်းလှမင်းထင်စည်သူသည် မဟာဗောဓိနယ်မြေကို သိမ်းပိုက်ထားသော မဟန္တကီ ဇော်ဂျီကြီးထံ၌ ဖန်ပုလင်းနှင့်ထည့်၍ သိမ်းထားသော ဆံတော်ဓာတ် ၁၆ ဆူကို ဖူးတွေ့ရလေရာ ထိုဆံတော်ဓာတ် ၁၆ ဆူနှင့်တကွ ရုံသီမုနိ ခေါ်ရုပ်ပွားတစ်ဆူကို မဟန္တကီဇော်ဂျီကြီးထံမှ ငွေသုံးရာပေး၍ ပင့်ဆောင်ခဲ့လေသည်ဟု သိရှိရပေသည်။
>
> ထိုဆံတော် ဓာတ် ၁၆ ဆူမှာ မူလက မဟာဗောဓိအရှေ့ အပရာဇိတပလ္လင်တော်ရာ၌ သီရိဓမ္မာသောကမင်းကြီး စေတီတည်စဉ်အခါက ဆံတော်များကို ကြုတ်ငါးထပ်တွင်ထည့်သွင်းပူဇော်၍ ရွှေပေလွှာနှင့်တကွ ဌာပနာထားခဲ့သော ဆံတော်ဓာတ်များဖြစ်ကြောင်း သိရှိရပါသည်။
>
> ထိုဆံတော်ဓာတ်တော်များကို အင်္ဂလိပ်စစ်သားများ ရတနာသိုက်တူးကြစဉ်တွေ့ရှိရသဖြင့် စစ်သားများထံမှ ဇော်ဂျီကြီးက ယူထားလိုက်သည်ဟုဆိုသည်။ ထိုဇော်ဂျီထံမှတစ်ဆင့် ဆရာတော် ဦးဝိသုဒ္ဓါစာရက ပြန်လည်ပင့်ဆောင်ခဲ့ခြင်းဖြစ်ကြောင်းသိရပါသည်။
>
> ( ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၉ )

ထိုအကြောင်းကို ဆရာတော်၏ ရွှေဉာဏ်တော် စေတီသမိုင်းပေစာ မူရင်းမှာ -

> **"၎င်းရွှေဆံတော် တစ်ဆယ့်ခြောက်ဆူတို့၏ ပမာဏကား အရှည်လက်ရင်းတစ်ဆယ့်တစ်သစ်ခန့် လုံးပတ်မှာ တရုတ်အပ်ကြီးပမာဏရှိသတည်း။ အဆင်းသဏ္ဍာန်မှာ မည်သည့်အဆင်းသဏ္ဍာန်နှင့် တူသည်ဟု နှိုင်းခိုင်းစေရာ ဥပမာမရှိ တင့်တယ်သည် ညိုမောင်းသောအခါလည်း ညိုမောင်းသည်။ စိမ်းရွှေဝင်းဝါသောအခါလည်း စိမ်းရွှေဝင်းဝါသည်"ဟု ရေးသားပါရှိသည်ဟု သိရှိရပါသည်။**
>
> (ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၉)

ဆရာတော်ဦးဝိသုဒ္ဓါစာရ ရရှိကိုးကွယ်ရပုံမှာ ဤသို့ဖြစ်ပါသည်။

> နေမျိုးမင်းလှမင်းထင်စည်သူသည် (ငယ်နာမည်မောင်မောင်) သစ်ဆိမ့်နယ်အပါအဝင် ရွာသစ်ကြီးရွာ ဇာတိလည်းဖြစ်၏။ ၎င်းအပြင် ဆရာတော် ဦးဝိသုဒ္ဓါစာရ၏ ငယ်သူငယ်ချင်းလည်းဖြစ်၏။ ထို့ကြောင့်ပင် ငယ်မည် မောင်မောင်ဟုခေါ်သော နေမျိုးမင်းလှမင်းထင်စည်သူ၏ထံမှ ယင်းဆံတော် ၁၆ ဆူနှင့်တကွ ရုပ်ပွားတော်များ မည်သူမျှ မသိစေဘဲ ကိုယ်တိုင်ကိုးကွယ်ခဲ့ရာမှတစ်ဆင့် ငယ်သူငယ်ချင်းဖြစ်သူ ဆရာတော်ဦးဝိသုဒ္ဓါစာရအား တစ်ဖန်လှူလိုက်ခြင်းဖြစ်ပေသည်။
>
> ( ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၉ )



ဆရာတော် ဦးဝိသုဒ္ဓါစာရတွင် ဘိန္နဗုဒ္ဓ ဥတ္တရသာခါပုညာယု စသော အမည်ဆန်းများနှင့် 'တန်ခိုးကြီးသည်'ဟု နာမည်ကြီးသော ရုပ်ပွားဆင်းတုတော် ၇ ဆူခန့်လည်း ရှိပေသေးသည်။ ယင်းတို့၏ သမိုင်းဝင် အသီးသီးကိုလည်း ပေစာ၌ရေးသားတင်ထားလေသည်။

ထိုတွင် အထူးခြားဆုံး ရုပ်ပွားတော်ကား စူဠာမုနိ ရုပ်ရှင်တော်ဖြစ်သည်။ ဉာဏ်တော်မှာ ၅ ပေခန့်ရှိ၏ဟု ဆိုပါသည်။ တင်ပျဉ်ခွေ ကိုယ်တော်ဖြစ်၏။ ယခု မန္တလေးသဘော်ာတန်း ဦးလှဖေအိမ်၌ ကိုးကွယ်ထားသည်ဟု သိရှိရပါသည်။

> "ငါ ဤအရပ်၌ မမွေ့လျော်၊ ငါ့ကို လာပင့်လှည့်"ဟု သုံးကြိမ်တိုင်တိုင် အိပ်မက် မြင်၍ အိပ်မက်အရ သံပတ်မြို့ခေါ် မန္တလေးဓာတ်နန်းရပ် ချုံနွယ်ပုတ်ပေါင်း များကြားမှ ပင့်ဆောင်ပူဇော်ရ၏။ ပင့်ဆောင်စဉ် ဆရာတော်က လက်အုပ်ချီ၍ လိုက်ပါလာလေရာ အများပရိသတ် မြင်သာအောင်ပင် ရုပ်ပွားရှင်တော်မြတ်က ပြုံးတော်မူသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၁)

ဆရာတော်ဦးဝိသုဒ္ဓါစာရသည် စူဠာမုနိ ရုပ်ရှင်တော်သမိုင်းကို ပေစာ၌ရေးကာ သားရိုး စေတီငယ်၌ ဌာပနာ၍ လျှို့ဝှက်သိမ်းဆည်းထားသည်။

> သမိုင်းအရ သိရှိရသည်မှာ ထိုစူဠာမုနိ ရုပ်ရှင်တော်မြတ်တော်သည် မန္တလေးမဟာ မုနိသမိုင်းအလား ဘုရားသက်တော်ထင်ရှားရှိစဉ်က ဖြစ်၍ ရခိုင်ဘုရင် စန္ဒသူရိယမင်း ကကိုးကွယ်ခဲ့ကြောင်း၊ ၎င်းနောက် ပုဂံ အင်းဝမင်းများ ပင့်ဆောင်ကိုးကွယ်ခဲ့ကြောင်း သိရှိရပါသည်။

( ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၁)

ဆရာတော်ဦးဝိသုဒ္ဓါစာရကား ထိုရုပ်ပွား ကိုယ်တော်မြတ်ကြီးရှေ့၌ တစ်နေကုန်သည့်အခါကုန်၍ အနည်းဆုံး တစ်နေ့ ၃ ကြိမ်ထက်မနည်း ဘုရားအာရုံပြုသည်ဟုသိရပေသည်။

လောက၌ မိမိတို့အလိုရှိရာ ညွှတ်ရာရတတ် ဖြစ်တတ်စမြဲဖြစ်ရာ ရတနာရှိရာ ရတနာစု ရတနာရှိမှ ရတနာလာဟူသည့်အတိုင်း ထူးဆန်းအံ့ဖွယ်သော ဆံတော်၊ ဓာတ်တော်နှင့် ရုပ်ပွားတော်မြတ်များ ဆရာတော်ဦးဝိသုဒ္ဓါစာရထံ ကြွလာတော်မူကြသည်ကိုထောက်၍ ဆရာတော်၏ ဆန္ဒစေတနာနှင့် ဗုဒ္ဓါနုဿတိသဒ္ဓါဓာတ်သည် မည်၍မည်မျှ ကြီးကျယ်မြင့်မြတ်ကြောင်းကို အကဲခတ်နိုင်ကြပေလိမ့်မည်။

ဆရာတော် ဦးဝိသုဒ္ဓါစာရသည် ယင်းစူဠာမုနိ ရုပ်ရှင်တော်ကြီးကို ပြာသဒ်၊ ခနု သုံးထပ်လည် ပေါ်များဖြင့် ခမ်းနားလှသော ဇေတဝန်ကျောင်းကြီးပေါ်၌ တခမ်းတနား ပူဇော်ထားရှိပေသည်။

> ထိုသို့ထားရှိသည်ကို ဇေတဝန်ကျောင်း တောင်ဘက်ရှိ ပြာသဒ်လှကျောင်း ဘုန်း တော်ကြီးဦးခေမိန္ဒသည် မနာလို မရှုစိမ့်နိုင်သဖြင့် ဆရာတော်ဆွမ်းခံကြွခိုက်တွင် ကျောင်းတော်ကြီးနှင့်တကွ ဘုံ ၇ ဆင့်ရှိ သီလဝိသောခနီ သိမ်ပြာသဒ်ကြီးကိုပါ မကြွင်းမကျန်ရအောင် မီးရှို့လိုက်လေသည်။

( ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၁)

ထိုသတင်းကိုကြားသောအခါ ရွာထဲရောက်နေသော ဆရာတော်က ရွာသားများအား ဘာ ပစ္စည်းမှ မက်မောမယူနေတော့ဘဲ စူဠာမုနိ ရုပ်ရှင်တော်ကိုသာ ကျောင်းပေါ်မှပင့်ချရန် အမိန့်ရှိ၍ အလျင်အမြန်ပြေးသွားကြရာ သိမ်ပြာသဒ်ကြီးအားလုံးလောင်၍ မီးငြိမ်းသွားသော်လည်း အနီး



ဇေတဝန်ကျောင်းကြီးကို မီးမကူးဘဲ ရှိနေကြောင်း အံ့သြစွာတွေ့ရှိရသဖြင့် ရုပ်ပွားကိုယ်တော်မြတ်၏ တန်ခိုးတော်ကြောင့်သာဖြစ်သည်ဟု အားလုံးကယုံကြည်ကြလေသည်။

ဆရာတော် ဦးဝိသုဒ္ဓါစာရလည်း သက်ရွယ်တော်ကြီးလာသောအခါ မိမိတူးဖော်ခဲ့သော စာလှည့်တင်ဂူ၌ တောရဆောက်တည်၍ အရညဝါသီအဖြစ် သီတင်းသုံးနေထိုင်တော်မူခဲ့လေသည်။ သပိတ်တစ်လုံးနှင့်တကွ သုံးထည်သောသင်္ကန်းမျှရှိ၍ တစ်ပါးသူတို့လိုချင်စရာ မနာလိုချင်စရာ ဘာ ပစ္စည်းတစ်ခုမျှ အပိုမထားခဲ့ပေဟုသိရှိရပါသည်။

ထိုစဉ် အံ့ဖွယ်ဖြစ်ရပ်တစ်ခုသည် ထပ်မံဖြစ်ပွားခဲ့ပြန်လေသည်။

အထက်တွင် ဖော်ပြခဲ့သော မီးရှို့ခဲ့သည့် ပြာသဒ်လှ ဘုန်းကြီး ဦးခေမိန္ဒသည် ဆရာတော် ဦးဝိသုဒ္ဓါစာရအား အသက်အန္တရာယ်ပြုရန် တောကျောင်းသို့ တစ်ဖန်လိုက်သွား၍ နှောင့်ယှက်ပြန်လေသည်။

> ထိုအခါ လမ်းခုလတ်အရောက်တွင် တောထဲတွင် လူမမြင်ရဘဲ တစ်စုံတစ်ဦးက မိမိနောက်မှလိုက်၍ မိမိအား ကြိမ်လုံးဖြင့်ရိုက်လေသည်ဟုဆို၏။ ထိုအခါ ဦးခေမိန္ဒလည်း ထိုနေရာမှလှည့်၍ ကျောင်းသို့ပြေးလေရာ အားကုန်ပြေးသော်လည်း မလွတ်နိုင်ဘဲ သူ့ကျောင်းပေါက်သို့ ရောက်လျှင်ရောက်ချင်းပင် ရှေ့သို့ ဟပ်ထိုးလဲ၍ကျလေသည်။
>
> (ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၂၂)

၁၉၂၁ ၁၂၈၃ ခု(၁၉၂၁)ခုနှစ်တွင် ထိုဘုန်းတော်ကြီး ဦးခေမိန္ဒ ပျံလွန်ခဲ့သည်ဟု သိရပါသည်။ ထိုသို့ ဦးခေမိန္ဒပျံလွန်ပြီးနောက် များမကြာမီ ညတစ်ညတွင် နတ်ဘီလူးကြီးတစ်ဦးသည် ဆရာတော်ဦးဝိသုဒ္ဓါစာရထံ လာရောက်တောင်းပန်လေသည်ဟု သိရပါသည်။

> ထိုဘီလူးကြီးကားအခြားမဟုတ်၊ ၁၂၈၃ ခုက ပျံလွန်တော်မူခဲ့သော ဘုန်းတော်ကြီးဦးခေမိန္ဒဘဝမှ တစ်ဖြစ်လဲလာခဲ့သော နတ်ဘီလူးကြီး ဦးခေမိန္ဒဖြစ်ကြောင်း သိရှိရပါသည်။
>
> (ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၂)

ထိုအကြောင်းအရာကို ဆရာတော်ဦးဝိသုဒ္ဓါစာရကိုယ်တိုင် ရေးသားထားသော အတ္ထုပ္ပတ္တိလည်း ရှိ၏။ ထိုဒေသရှိ လူအများလည်း သိနေကြသော အဖြစ်အပျက်တစ်ခုလည်းဖြစ်ကြောင်းသိရပါသည်။

ဆရာတော်ဦးဝိသုဒ္ဓါစာရလည်း အသက်အရွယ်တော်ကြီး၍ မထနိုင်၊ မသွားနိုင်ရှိလတ်သောအခါ ရွာကျောင်း၌ပင် ပြန်လည်သီတင်းသုံးတော်မူခဲ့လေသည်။ ထိုအခါ ရွာမှပင် ဆွမ်းပို့ကြရသည်။

> ထူးဆန်းသောအချက်တစ်ခုမှာ ရပ်ထဲရွာထဲ၌ တစ်စုံတစ်ယောက် ထူးထူးခြားခြားဖြစ်လျှင် အထူးသဖြင့် တစ်စုံတစ်ယောက် ကွယ်လွန်လျှင် ဆရာတော်သိနေပြီး ဖြစ်နေတတ်ကြောင်းပင်ဖြစ်လေသည်။
>
> ရံဖန်ရံခါ ဆွမ်းပို့လာသူများအား "မောင်ဖြူရှိရဲ့လား"ဟု မေးလျှင် ဆရာတော် စိတ်ချမ်းသာမှုရှိစေရန် "ရှိပါသည်ဘုရား"ဟူ၍ သာမန်အားဖြင့် လျှောက်ထားကြ၏။ ထို့အခါ ဆရာတော်က "အင်း နင်တို့ကသာ ရှိတယ်ပြောနေ မောင်ဖြူ မနေ့ညက ငါ့ဆီလာကန်တော့သွားတယ်"ဟု မိန့်တော်မူလေ့ရှိသည်။ ဤသည်မှာ အလွန်ထူးပေသည်။
>
> (ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၂၂)



၁၉၂၅ ဆရာတော် ဦးဝိသုဒ္ဓါစာရသည် ၁၂၈၆ ခု တပို့တွဲလ ( ၁၉၂၅ ခု ဇန်နဝါရီလ) တွင် ပျံလွန်တော်မူကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၂)

ဖွားသက္ကရာဇ်နှင့်တကွ အခြားအသေးစိတ်အကြောင်းအရာများကို မသိရှိရပါ။ ထိုအချက်များကို ပင်လျှင် ဓမ္မာစရိယ ဦးဌေးလှိုင်၏ ဓမ္မဒူတမှ ရရှိပါ၏။ ပိုမိုသိရှိသူတို့က ယခုစာကို ချဲ့ထွင်ရေးကြလျှင် အမျိုးဘာသာ သာသနာအတွက် အလွန်ပင်အကျိုးရှိပါလိမ့်မည်။

အထက်ပါ ဆောင်းပါးမှာ - မသိသူကျော်သွား၊ သိသူဖော်စား၊ ကျွန်တော် ဆက်ရေးချင်သော ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး အရှင်ဝိသုဒ္ဓါစာရ အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၄၃၊ ၂၃-၁-၂၀၀၆ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

အထက်ပါ စာများအရ ရဟန္တာအရှင်မြတ်ကြီးဖြစ်သော ဟန်လင်းသစ်ဆိမ့် ဆရာတော်ဦးဇဝန အကြောင်းကိုလည်းကောင်း၊ ညီတော်ဖြစ်သော ရဟန်းထူးရဟန်းမြတ် ဦးဝိသုဒ္ဓါစာရအကြောင်းကို လည်းကောင်း သိခဲ့ပြီဖြစ်ပါသည်။ ထိုဦးဝိသုဒ္ဓါစာရထံမှ ပင့်ဆောင်ခဲ့သော ဓာတ်တော်များမှာ ယခု ရန်ကင်းတောင်အနီးရှိ အတုလမဟာမြကျောက်စေတီတော်နှင့် ဆက်နွယ်လျက်ရှိပါသည်။

## အတုလမဟာမြကျောက်စေတီတော်

၁၉၂၆ မင်းတုန်းမင်းတရားကြီး၏ ကောင်းမှုတော်စာရင်းဝင် (မဟာကျော်စေတီကြီး) အတုလ မဟာမြကျောက်စေတီတော်ကို အေဒီ ၁၉၂၆ ခု၊ ဒီဇင်ဘာလ (၁၂၈၈ ခုနှစ်၊ နတ်တော်လ)တွင် ရန်ကင်းတောင်ခြေအနီး၌ တည်ထားကိုးကွယ်ခဲ့ပါသည်။

(ကျမ်းကိုး၊ ငါးရံ့မင်းတောင်၊ ရန်ကင်းတောင်တော် သမိုင်း၊ ပထမအကြိမ်၊ ၁၉၉၅ ခု၊ စက်တင်ဘာလ၊ လူထုကြီးပွားရေး ပုံနှိပ်တိုက်၊ မန္တလေး စာ ၇၉)

## သရီရဓာတ်တော်များ သမိုင်း

ထိုစေတီတော်မှာ ဗုဒ္ဓဘုရား၏ အသွေးတော်၊ အသားတော်၊ အရိုးတော်မှ ဖြစ်တော်မူသော သရီရဓာတ်တော်များကို ဌာပနာ၍ တည်ထားခဲ့သည့် စေတီတော် ဖြစ်သည်။ မင်းတုန်းမင်းတရားကြီးသည် ဤသရီရ ဓာတ်တော်များကို ဧရာဝတီ မြစ်ကမ်းဘေးရှိ သစ်ဆိမ့်ကြီးရွာ ဇေတဝန်ကျောင်းဆရာတော် ဘဒ္ဒန္တဝိသုဒ္ဓထံမှ လျှောက်ထား တောင်းခံ၍ နန်းတော်အတွင်း၌ ပင့်ဆောင်ပူဇော်ထားလေသည်။

ဗုဒ္ဓမြတ်စွာဘုရား ပရိနိဗ္ဗာန်စံဝင်တော်မူပြီးမကြာမီ အရှင်ပုဏ္ဏ၊ အရှင်သုန္ဒရ ဘွဲ့တော်ရှိသော ရဟန္တာအရှင်မြတ်နှစ်ပါးသည် ဗုဒ္ဓ၏ အသွေးတော် အသားတော်မှ ဖြစ်တော်မူသော ဓာတ်တော်များကို ရွှေဘိုခရိုင်၊ ဝက်လက်မြို့နယ်၊ ဟန်လင်းကြီးဒေသ တွင် ထူပါရုံစေတီအတွင်း ဌာပနာတည်ထားပြီး တကောင်းပြည်သို့ ပြန်ကြွသွား၍ ပရိနိဗ္ဗာန်ပြုလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၉)

တစ်နေ့သ၌ သစ်ဆိမ့်ကြီးရွာ ဇေတဝန်ကျောင်းတော်တွင် သီတင်းသုံးတော်မူ သော ဆရာတော်ဦးဝိသုဒ္ဓသည် သရီရဓာတ်တော်များအကြောင်းကို အိပ်မက်မြင်မက် လေသည်။ ဆရာတော်သည် အိပ်မက်အရ ဟန်လင်းကြီးဒေသသို့ သွားရောက်ရှာ



ဖွေရာ ထူပါရုံစေတီကိုမတွေ့ရှိခဲ့ပေ။ ထိုသို့ ရှာဖွေနေရင်း တစ်နှစ်ကျော်ခန့်အကြာ ပျက်စီးယိုယွင်းနေသောစေတီ၏ အုတ်ကျိုးအုတ်ပဲ့များကြားမှ ဌာပနာတိုက်ကို တွေ့ရှိ၍ ဓာတ်တော်များကို ဇေတဝန်ကျောင်းသို့ ပင့်ဆောင်ပူဇော်ထားခဲ့သည်။

ထိုအကြောင်းကို မင်းတုန်းမင်း တရားကြီး ကြားသိတော်မူ၍ ဆရာတော် ဦးဝိသုဒ္ဓနှင့် ရင်းနှီးသော စစ်ကိုင်းဝတ်ချက်မင်းကျောင်း ဆရာတော်မှ တစ်ဆင့် ဦးဝိသုဒ္ဓအား နေပြည်တော်သို့ ပင့်ဆောင် လျှောက်ထားခဲ့ရာ ဆရာတော်ကလည်း မင်းတရားကြီးသည် သာသနာပြုမင်း ဖြစ်တော်မူ၍ သာသနာတော်အတွက် အထောက်အပံ့ ဖြစ်စေရန် ဓာတ်တော်များကို ချီးမြှင့်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၀)

## ဆရာတော်ကြီးများ၏ ဩဝါဒကို ခံယူတော်မူခြင်း

စေတီတော် တည်ထားရေးအတွက် သုဓမ္မာဆရာတော်ကြီးများ၊ အတုမရှိဆရာတော် မှန်ကျောင်း ဆရာတော်၊ စိန်တိုးဆရာတော်၊ မက္ခရာဆရာတော်၊ ခင်မကန်ဆရာတော်၊ ရွှေကူဆရာတော်၊ အင်းကန်း ဆရာတော်၊ ဆင်တဲ ဆရာတော်၊ နန်းဦးဆရာတော်၊ သင်္ဂဇာဆရာတော်၊ ဗန်းမော်ဆရာတော်တို့အား အမှူးထားလျက် ဩဝါဒခံယူတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၁)

## စေတီတော်ကြီး တည်ထားရန် နေရာရွေးချယ်ခြင်း

စေတီတော်တည်ထားရန် ပညာရှိ မှူးမတ်များ၊ ပုဏ္ဏားဖြူ ပုဏ္ဏားညိုများ၊ ပန်းချီတော် မြေတိုင်းတို့မှ ၁၂၁၈ ခုနှစ်တွင် ရှာဖွေလျှုဒါန်းခဲ့သော ရွှေနန်းတော်အရှေ့တည့်တည့် ရန်ကင်းတောင်ခြေ အနီးရှိ ဘူမိဥက္ကဋ္ဌမြတ်သော မြေနေရာကို ရွေးချယ်သတ်မှတ်ခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၁)

## စေတီတော်ကြီး စတင်တည်ထားခြင်း

ဗုဒ္ဓမြတ်စွာဘုရား၏ သရီရဓာတ်တော်များနှင့် ရတနာများကို တည်ထားရန်မှူး နောင်ချိုစော်ဘွား၏ အစီအမံဖြင့် မျက်နှာပြင်ညီ ကျောက်တုံးကြီးများကို ဖောင်များ၊ ဆင်များဖြင့် အဆင့်ဆင့် သယ်ယူ၍ လည်းကောင်း၊ တစ်နေ့လျှင် အလုပ်သမားပေါင်း (၁၀၀၀) ၏ လုပ်အားဖြင့်လည်းကောင်း၊ တည်ဆောက်ခဲ့ပါသည်။ စေတီတော်၏ အောက်ခြေခုံ ဖိနပ်အကျယ်အဝန်းမှာ (၈)ကေရှိပြီး ထီးတော်အမြင့်မှာ ရန်ကင်းတောင်ထိပ်ရှိ လွှမ်းစေတီနှင့်အညီ တည်ထားရန် ရည်ရွယ်ရင်းရှိတော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၁-၈၂)

## ဌာပနာတော်များ ပင့်ဆောင်တော်မူခြင်း

၁၈၇၇ ၁၂၃၉ ခုနှစ်တွင် စေတီတော်အတွင်း ဌာပနာရန် မြအဆင်း၊ ပုလဲအဆင်း၊ ဘုရား



အဆင်း၊ ရွှေဆင်းရှိသော ဓာတ်တော်များ ရွှေ၊ ငွေ၊ ကျောက်သံပတ္တမြား၊ မြကျောက် ရတနာများကို မင်းညီ၊ မင်းသား၊ မှူးမတ်များနှင့် နာခံတော် နေမျိုးစည်သူကျော်ထင်ကို ကြီးကြပ်စေ၍ မင်္ဂလာမြောင်း (ခေါ်) ပန်းတင်မြောင်းမှ ဖောင်တော်ဖြင့် ခမ်းနား ကြီးကျယ်စွာ ဘူမိဥက္ကဋ္ဌမြေသို့ ပင့်ဆောင်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၂)

## ဌာပနာတော်မူခြင်း

၁၈၇၇ ၁၂၃၉ ခု၊ သီတင်းကျွတ်လဆန်း ၄ ရက်နေ့၌ နာခံတော် နေမျိုးစည်သူကျော်ထင်ကို အမိန့်ပြန်တမ်း ထုတ်ပြန်စေလျက် ဗုဒ္ဓ၏ အသွေး၊ အသား၊ အရိုးတော်မှ ဖြစ်တော်မူသော သရီရဓာတ်တော်များနှင့် ရွှေ ငွေ ကျောက်သံပတ္တမြား ကုန်းဘောင်မင်းဆက် နန်းစဉ်မြကျောက်ရတနာများကို ထည့်သွင်းဌာပနာတော်မူလေသည်။ ဓာတ်တော်များနှင့်အတူ ကုန်းဘောင်မင်းဆက် နန်းစဉ်မြကျောက် ရတနာများကို ထည့်သွင်းဌာပနာတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၂)

## မင်းတုန်းမင်းတရားကြီး၏ သမ္မာဆန္ဒ

၁။ မြကျောက်သည် ကျစ်လျစ်ခိုင်မာသကဲ့သို့ ကျွန်ုပ်နှင့်တကွ တိုင်းသူပြည်သားအပေါင်း၏ ကျန်းမာမှု၊ ချမ်းသာမှုတို့သည် ကျစ်လျစ်ခိုင်မာကြပါစေ။

၂။ မြကျောက်သည် အေးမြသကဲ့သို့ ကျွန်ုပ်နှင့် တိုင်းသူ ပြည်သားအပေါင်းတို့သည်လည်း အေးမြကြပါစေ။

၃။ မြကျောက်၏ မျက်နှာပြင်သည် ညီညာသကဲ့သို့ ကျွန်ုပ်နှင့် တိုင်းသူပြည်သားတို့သည်လည်း စည်းလုံးညီညာစွာ ရှိကြပါစေဟု အာရုံပြုခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၃)

## ဘဝရှင်မင်းတရားကြီး နတ်ရွာစံ ကံတော်ကုန်ခြင်းနှင့် တဘောင်အဆို

၁၈၇၈ ထိုသို့ စေတီတော်ကြီးအား တည်ဆောက်ဆဲကာလ၊ တတိယ ပစ္စယံအထိ ပြီးစီးသည့် အချိန် ၁၂၄၀ခု၊ သီတင်းကျွတ်လဆန်း ၆ ရက်နေ့တွင် ပဉ္စမသင်္ဂါယနာတင် ဘဝရှင်မင်းတရားကြီး နတ်ရွာစံ ကံတော်ကုန်လေသည်။ ဤကောင်းမှုတော်ဝင် စေတီကြီး တည်ဆဲကာလ ရတနာပုံနေပြည်တော်၌ လွမ်းစေတီကြီး အပြီးမသတ်၊ မုဆိုးသုညကပ် ဆိုသော တဘောင်အဆို တစ်ခုပေါ်ထွက်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၃)

## မြကျောက်စေတီတော်နှင့် ဦးခေမာ

၁၉၈၈ မန္တလေးမြို့ ဘုရားကြီးအရှေ့မုခ်ရှိ မဟာနန္ဒိသေနာရာမ ပါဠိတက္ကသိုလ် ကျောင်းတိုက်တွင် သီတင်းသုံး၍ စာသင်စာချတာဝန် ထမ်းဆောင်နေသော ဆရာတော်ဦးခေမာအား ရှေးကုသိုလ်ပါရမီအကြောင်းတရားများရှိသော ဒါယကာ ဒါယိကာ



မများမှ လျှောက်ထားပင့်ဆောင်ချက်အရ ၁၃၅၀ ခု၊ တန်ဆောင်မုန်းလဆန်း ၉ ရက်နေ့၌ သာသနာပြုရန် ဤ၀တ္တကမြေသို့ ကြွရောက်ကြည့်ရှုတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၅)

**ဦးခေမာသည် မိမိ၏ သာသနာပြုလုပ်ငန်းများ အောင်မြင်နိုင်မှု ရှိမရှိ၊ သိရှိလို၍ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးကို အောက်မေ့လျက် ခဲသုံးလုံးအား ဖိုခနောက်ဆိုင်၊ အမွှေးတိုင် ၁၄ တိုင် ထွန်းညှိကာ ဂုဏ်တော်များ ပရိတ်တော်များ ရွတ်ဖတ်သရဇ္ဈာယ်၍ သစ္စာပြု အဓိဋ္ဌာန်၍ ကြည့်စဉ် ကျီးတစ်ကောင်သည် ဆရာတော်ဦးခေမာနှင့် သာသနာပြု မိသားစုထံ ပျံသန်းလာပြီးနောက် အကောင် ၁၅ ခန့်ရှိ ကျီးညိုတစ်အုပ်သည် ဆရာတော် ဦးခေမာ၏ ထက်ဝန်းကျင်၌ လက်ယာရစ်အတိုင်း ပျံဝဲနေသည်ကို တွေ့ရှိရလေသည်။**

ဆရာတော် ဦးခေမာနှင့် သာသနာမိသားစုတို့သည် ဤကဲ့သို့ ကျီးညိုများ အုံဖွဲ့ပျံဝဲခြင်း နိမိတ်သည်ကား အမျိုးဘာသာ သာသနာစိတ်ရှိသော ပါရမီရှင် အပေါင်းတို့သည် ဤသာသနာတော်ကြီး တိုးတက်ပြန့်ပွား ထွန်းကားရေးအတွက် ဝိုင်းအုံလျက် လှူဒါန်း ပါဝင်ဆောင်ရွက်ကြလိမ့်မည်။ ဤနေရာမှ စ၍ နိုင်ငံအနှံ့၊ ကမ္ဘာအနှံ့၊ သာသနာတော်ကြီး နှစ်ပေါင်း (၅၀၀၀) မက နေရောင်လရောင် ကဲ့သို့ တောက်ပြောင်ထွန်းလင်းလိမ့်မည်ဟု ဓာတ်နိမိတ်ကို ယူဆောင်၍ အောင်မြင်မှာ အမှန်ဖြစ်ကြောင်း ယုံကြည်ကြလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၆)

## ဆရာရင်းထံ ခွင့်ပန်လျှောက်ထားခြင်း

ဦးခေမာ၏ ဆရာရင်းဖြစ်သော မြိတ်မြို့ ဘုရားကိုးဆူဆရာတော် ဦးဉာဏောဘာသထံ ပြန်၍ မြကျောက်စေတီတော် တည်ထားရန်နှင့် သာသနာတော် အဆက်ပြတ်မှု အကြောင်းအရင်းများကို လျှောက်ထား၍ ဆရာတော်၏ ဩဝါဒကို ခံယူတော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၇)

## ဝတ္တကမြေနှင့် သာသနာ့တာဝန်များကို လွှဲအပ်ခြင်း

၁၉၉၁ ၁၃၅၃ ခု၊ ဒုတိယဝါဆိုလဆန်း ၁၃ ရက်နေ့တွင် ဥက္ကဋ္ဌ ဆရာတော် ဦးကုသလသည် ဦးခေမာအား ဤသာသနာ့တာဝန်အရပ်ရပ်ကို အောင်မြင်စွာ ထမ်းဆောင်နိုင်လိမ့်မည်ဟု ယုံကြည်စိတ်ချရသောကြောင့် မင်းတုန်းမင်းတရာကြီး လက်ထက်တော်မှ တည်ရှိနေသည့် ဝတ္တကမြေနှင့် သာသနာ့တာဝန်များကို ဦးခေမာ၏ သဒ္ဒါဆန္ဒနှင့်အညီ ဆောင်ရွက်နိုင်ရန် နယ်သံဃာတော်များ နယ်ဒါယကာ ဒါယိကာမ မန္တလေးမြို့မှ ဒါယကာ ဒါယိကာမများ ရှေ့မှောက်၌ ဦးခေမာအား လွှဲအပ်လိုက်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၈)



## ဦးခေမာ၏ ဆောင်ရွက်ချက်များ

၁၉၉၁ ဆရာတော်၏ ယုံကြည်စိတ်ချစွာ တာဝန်ပေး လွှဲအပ်မှုကြောင့် ၁၃၅၃ ခု၊ သီတင်းကျွတ်လပြည့်ကျော် ၁ ရက်နေ့တွင် ဦးခေမာသည် သီတင်းသုံးရာ မဟာနန္ဒိသေနာရာမ ပါဠိတက္ကသိုလ်ကျောင်းတိုက်မှ မြကျောက်စေတီတော် ဝတ္တကမြေသို့ ပြောင်းရွှေ့ သီတင်းသုံးနေထိုင်ခဲ့သည်။ ဤဝတ္တကမြေအတွင်း စေတီတော် တည်ရန်နေရာများကို အာရုံပြု၍ စတင်ရွေးချယ် သတ်မှတ်ခဲ့သည်။ ဦးစွာ ဦးခေမာသီတင်း သုံးနေထိုင်မည့် အသားခင်း၊ ထရံကာ၊ ကပ်မိုး ကျောင်းတစ်ဆောင်ကို ဆောက်လုပ်ပြီးနောက် စေတီတော်နှင့် သာသနိကအဆောက်အအုံများ ဆောက်လုပ်ရန်နေရာမှာ ဗွက်အိုင်၊ ချိုင့်ဝှမ်းကြီးများ ဖြစ်နေသောကြောင့် ကားအစီးပေါင်း (၄၀၀၀) ကျော်ခန့် မြေများကို ဆည်ဖို့ ပြုပြင်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၉)

## ဝိသုံဂါမဗဒ္ဓသိမ်တော်သမုတ်ခြင်းနှင့် ပန္နက်မင်္ဂလာ

၁၉၉၄ ၁၃၅၆ ခု၊ ဝါခေါင်လပြည့်ကျော် နံနက် အတုလမဟာမြကျောက်စေတီအတွင်း ဝိသုံဂါမဗဒ္ဓသိမ်တော် သိမ်သမုတ်ပွဲကို သက်တော် ၁၀၁ နှစ်ရှိ ရွှေကျင် သာသနာပိုင် ဘဒ္ဒန္တပဏ္ဍိတသီရိ (စစ်ကိုင်း ရွှေဟင်္သာ ဆရာတော်ဘုရားကြီး ) ( နိုင်ငံတော် ဩဝါဒစရိယ အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု၊ အဘိဓဇ အဂ္ဂမဟာသဒ္ဓမ္မဇောတိက)၊ ဒေးဝန်းဆရာတော် (အဘိဓဇမဟာရဋ္ဌဂုရု)၊ နယားကျောင်းဆရာတော်၊ (အဘိဓဇမဟာရဋ္ဌဂုရု)၊ ဘုရားကြီး ဒက္ခိဏာရာမ ဆရာတော်တို့အား အမှူးထားလျက် ရွှေကျင်၊ သုဓမ္မာ၊ တိုင်း ဗဟိုဝန်ဆောင်ဆရာတော်ကြီးများ၊ နိုင်ငံတော်သံဃနာယကအဖွဲ့ဝင် ဆရာတော်များ၊ နိုင်ငံတော် သာသနာ့တက္ကသိုလ်ကျောင်းအုပ်ကြီးနှင့် ကထိက နည်းပြ ဆရာတော်များ၊ ကျောင်းထိုင်ဘုန်းကြီး ကျောင်းအုပ်ကြီးနှင့် စာသင်သားများ၊ ဒေသခံမြို့နယ်၊ ကျေးရွာ သံဃာ့နာယကအဖွဲ့ ဆရာတော်များ၊ စေတီတော်ဂေါပကအဖွဲ့ မြကျောက်စေတီတော် သာသနာ့ မိသားစုများတို့သည် စေတီတော်ကြီး၏ အရှေ့ဘက်တွင် ဤဝိသုံဂါမ ဗဒ္ဓသိမ်တော်ကို ၇ ရက်တိုင်တိုင် သိမ်သမုတ်ပြီး သိမ်ပန္နက်မင်္ဂလာကို စိုက်ထူခဲ့ကြသည်။

(ကျမ်းကိုး၊ (၁) ငါးရံ့မင်းတောင်၊ ရန်ကင်းတောင်တော် သမိုင်း၊ ပထမအကြိမ်၊ ၁၉၉၅ ခု၊ စက်တင်ဘာလ၊ လူထုကြီးပွားရေး ပုံနှိပ်တိုက်၊ မန္တလေး၊ ကျမ်းကိုး၊ (၂) ထိုအကြောင်းတို့ကို ဓမ္မာစရိယ ဦးဌေးလှိုင်က ဓမ္မဒူတ စာမျက်နှာ ၃၁၇ - ၃၂၇ တို့တွင် ဖော်ပြထားသည်မှာ အလွန်စိတ်ဝင်စားဖွယ်ရာ ဖြစ်ပေသည်။)

ဤကား ရဟန္တာအရှင်မြတ်အရှင်ဇဝနလက်ထက်မှ အစဉ်အဆက်သာသနာ့ခရီးတည်း။

မန်လည်ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် သွားရောက်ဖူးမြော်ရသော

ယနေ့တိုင် ရုပ်ကလာပ်တော် ကြွင်းကျန်နေသေးသည့် ရဟန္တာအရှင်မြတ်ကြီး

# ပုသိမ် မိဂဒါရုံဆရာတော်

အေဒီ ၁၈၃၂ - ၁၉၂၁ ( ၁၁၉၄- ၁၂၈၃ )





၁၉၆၁ - ၆၂ ခုနှစ်တွင် ပုသိမ်ကောလိပ်အသစ်ကြီး ပုသိမ်ကန်သုံးဆင့်မှာ ဖွင့်လှစ်ပါသည်။ စမဖွင့်ခင်ကတည်းက ကျွန်တော်တို့ ဆရာတစ်စုရောက်နှင့်နေကြပါသည်။ ကျောင်းအုပ်ကြီးမှာ ဦးလှရွှေ ဖြစ်ပါသည်။ မြန်မာစာဌာနမှူးမှာ ဦးမြင့်ကြည်ဖြစ်၏။ ကျွန်တော်တို့ ဆရာတစ်စုမှာ ဆရာဦးအေးဖေ၊ ဆရာဦးခင်အေးနှင့် ဆရာဦးလှမြင့်တို့ ဖြစ်ကြပါသည်။ ဆရာ ဦးလှမြင့်သည် နောင်အခါ မောင်ပန်းမွေး ဖြစ်၏။ ဆရာဦးခင်အေးသည် နောင်အခါ မြန်မာစာပါမောက္ခ ဒေါက်တာခင်အေး (မောင်ခင်မင် (ဓနုဖြူ)၊ ဆရာဦးအေးဖေသည် နောင်အခါ အဖေကြီးဦးအေးဖေဖြစ်လာ၏။ ဆရာဦးမြင့်ကြည်မှာ ဂီတစာဆို တက္ကသိုလ်မြတ်စိုးဖြစ်၏။

ထိုသို့ ပုသိမ်ကောလိပ်တွင်ရှိနေစဉ်တွင် ပုသိမ်ကောလိပ်မှ ကွေ့၍သွားလျှင် ထိုကန်သုံးဆင့် အနီးတွင်ပင် မိဂဒါရုံကျောင်းဟူ၍ရှိ၏။

## ၃၅ နှစ်ကြာမှ တူးဖော်ခဲ့ခြင်း

၁၉၂၂ ထိုပထမ မိဂဒါရုံ ဆရာတော်သည် ၂၃၊ ဧပြီလ၊ ၁၉၂၂ ခု၊ (၁၂၈၃ ခု၊ တန်ခူးလပြည့်ကျော် ၁၂ ရက်) တနင်္ဂနွေနေ့တွင် သက်တော် ၈၉ ခုနှစ်၊ ဝါတော် ၆၉ အရွယ်တွင် ပျံလွန်တော်မူခဲ့ပါသည်။

(ကျမ်းကိုး။ ပုသိမ် လှကြည်၊ စာ ၃၈၊ မြတ်မင်္ဂလာစာစောင်၊ ၁၉၈၇ ခု၊ မေလ )

၁၉၅၆ ထို့ကြောင့် တူးဖော်သောအချိန်တွင် နှစ်ပေါင်း (၃၅) နှစ် ကြာမြင့်ခဲ့ပြီဖြစ်ပါသည်။ ၁၉၅၆ ခု၊ မတ်လတွင် တူးဖော်ခြင်းဖြစ်ပါသည်။

**ဤသို့ တူးဖော်ရသည်မှာလည်း မိဂဒါရုံ စတုတ္ထမြောက် ဆရာတော်ဦးဇာနေယျ၏ အိပ်မက်ကြောင့်ဖြစ်လေသည်။ ဦးဇာနေယျသည် ၁၃၁၈ ခု၊ တပို့တွဲလဆန်း ၄ ရက်၊ တနင်္ဂနွေနေ့၊ ညဥ့်ဦးအချိန်အခါတွင် အိပ်မက်မက်မြင်သည်ဟုဆိုပါသည်။ ထိုအိပ်မက်အရ ညတွင်းချင်းပင် လျှင် ကျောင်းသားများနှင့် တူးဖော်ကြကြောင်းသိရပါသည်။**

၁၉၅၅-၅၆ ၁၉၅၅ - ၅၆ ခုနှစ် ( ၁၃၁၆ ) ခု လောက်က ဆရာတော် ဦးဇာနေယျဟူ၍ရှိ၏။ ဆရာတော် ဦးဇာနေယျသည် မိဂဒါရုံ ကျောင်းတိုက်၏ စတုတ္ထမြောက် မိဂဒါရုံဆရာတော်ဖြစ်၏။

ထို ၁၉၅၅-၅၆ (၁၃၁၆ ) ခု တပို့တွဲလတွင် စတုတ္ထမိဂဒါရုံဆရာတော် ဦးဇာနေယျ၏ ညွှန်ကြားချက်ဖြင့် ပထမ ဆရာတော်၊ ဒုတိယဆရာတော်၊ တတိယဆရာတော်တို့၏ ဂူများကို ပြန်လည်ပြုပြင်ရန်အလို့ငှာ တူးဖော်ကြရပါသည်။ ထိုအခါ တတိယ မိဂဒါရုံဆရာတော် ဦးကုသလ၏ ရုပ်ကလာပ်နှင့် ဦးခေါင်းတို့မှာ ကြေမွပျက်စီးနေကြောင်းတွေ့ရ၏။ တစ်ဖန် ဒုတိယ မိဂဒါရုံဆရာတော် ဦးသုဒဿန၏ ရုပ်ကလာပ်နှင့် ခေါင်းတော်တို့မှာ ကြေမွပျက်စီးနေကြောင်းတွေ့ရ၏။ သို့သော်လည်း အလွန်ထူးဆန်းသော အချက်မှာ ပထမ မိဂဒါရုံဆရာတော် ဦးသုမန၏ ရုပ်ကလာပ်တော်နှင့် ခေါင်းတော်တို့မှာ လုံးဝအပျက်အစီး အကြေအမွ တစ်စိုးတစ်မျှမရှိ၊ ပကတိအတိုင်း တွေ့မြင်ကြရပါသည်။ အလွန်အံ့ဩစရာကောင်းပါသည်။

## သက်န်းတော် အကောင်းပကတိ ရှိနေခြင်းအံ့ဖွယ်

ရှေးသရောအခါက ရုပ်ကလာပ်တော်ကို ကျွန်းသားခေါင်းတစ်ထပ်၊ ကြေးဝါခေါင်း



တစ်ထပ်၊ မှန်ခေါင်းတစ်ထပ် သုံးထပ်ခံ၍ ဂူသွင်းမြှုပ်နှံခဲ့ကြောင်းသိရပါသည်။ တူးဖော်လိုက်သောအခါ အပြင်ဘက်က ကျွန်းသားခေါင်းကြီးမှာ ခြတွေစား၍ကုန်နေပြီဖြစ်သည်။ အံ့ဖွယ်ကောင်းသည်မှာ ခြများသည် ကြေးဝါခေါင်းကြီးကိုပင် ချောင်ကြိုချောင်ကြားမှ ဖောက်ထွင်းပြီးလျှင် ဆရာတော်ကြီး၏ ရုပ်ကလာပ်နံဘေးသို့ ရောက်ရှိနေလေသည်။ ခြအိမ်များပင် ဖွဲ့လျက်ရှိလေသည်။

သို့သော် အလွန်အံ့ဩဖို့ကောင်းသည်မှာ သက်န်းတော်သည် အကောင်းပကတိဖြစ်နေ၏။ ဆွေးမြေ့မှုလည်းမရှိ။ ခြတို့ကလည်း လုံးဝမစား အကောင်းပကတိဖြစ်၏။ အလွန်အံ့ဩဖို့ကောင်း၏။ ခြများကပင် မတို့မထိကြ။

## အခေါင်းကြီးကို ဖွင့်လိုက်သောအခါ အသားအရေများ မွှေးကြိုင်နေခြင်း

ဆရာတော်ကြီး၏ အသားအရေများမှာ အလွန်မွှေးကြိုင်လျက်ရှိ၏။ အခေါင်းကြီးဖွင့်ကြည့်လိုက်သောအခါ မွှေးရနံ့တွေ တကြိုင်ကြိုင်တသင်းသင်းထွက်လာ၏။ ထိုအခါ မြန်မာတို့ ထုံးစံအတိုင်းပင် အလွန်ကြည်ညိုကြရကား ရဟန္တာအလောင်းတော်ကြီးဟူ၍ ဟိုးလေးတကျော်ကျော် ဖြစ်လာပါတော့သည်။

အလောင်းတော်ကြီးမှာ မပုပ်မသိုး။ အနံ့ကလည်းမထွက်။ ပကတိ ကျိန်းစက်နေသည့်အလား ဖြစ်၏။ စိုစိုပြည်ပြည်ကြီးဖြစ်၏။

## ကိုယ်တိုင် ဖူးမြော်ခဲ့ရပါသည်

၁၉၆၂ ၁၉၆၂ ခုနှစ်တွင် ကန်သုံးဆင့်တွင် တည်ရှိသော ပုသိမ်ကောလိပ်သို့ ဆရာအဖြစ်ရောက်လာသော အခါ ဤစာပြုသူသည် မိဂဒါရုံ ဆရာတော်ကြီး၏ ကျောင်းတော်သို့ အရောက်သွား၍ ဖူးမြော်ခဲ့ပါသည်။

## ပုသိမ်သားတွေ ကံကောင်းသည် ဇာတိမှာ အမရပူရ

ပုသိမ်သားတို့ အလွန်ကံကောင်း၏။ အဘယ့်ကြောင့်ဆိုသော် မိဂဒါရုံဆရာတော်ဘုရားကြီးသည် သက်တော် (၈၉) ခုနှစ် အရွယ်တွင် ခန္ဓာဝန်သိမ်းသောအခါ ပုသိမ်တွင်ဖြစ်သော်လည်း ဇာတိစစ်စစ်မှာ အမရပူရမြို့ဖြစ်၏။

## ဖွားသက္ကရာဇ်နှင့် ဇာတိ

၁၈၃၂ အေဒီ ၁၈၃၂ (၁၁၉၄ ခုနှစ်၊ နယုန်လဆန်း (၁၀) ရက်) သောကြာနေ့၊ နံနက် (၁) ချက်တီးကျော်အချိန်တွင် အမရပူရမြို့၌ ဖွားမြင်တော်မူကြောင်းသိရပါသည်။

## သီလရှင် မယ်ကင်းအဆက်အနွယ် ကသည်းလူမျိုး

မင်းတုန်းမင်းကြီးလက်ထက်က အလွန်ကျော်ကြားသော သီလရှင်မယ်ကင်း၏ အဆက်အနွယ်ဖြစ်ကြောင်းသိရသည်။ သီလရှင်မယ်ကင်း(အမေကင်း)၏ အဆက်အနွယ်ဖြစ်သဖြင့် မဏိပူရ ကသည်းလူမျိုးဖြစ်ဖွယ်ရှိကြောင်း ဆိုကြပါသည်။

(ကျမ်းကိုး ၊ အဂ္ဂပူ မဟာထေရုပ္ပတ္တိ စာအုပ်ကြီးကို ပန်းတောင်းမြို့၊



ဆုတောင်းပြည့် ကျောင်းတိုက်၊ အဂ္ဂမဟာပဏ္ဍိတ၊ ပန်းတောင်းဆရာတော် ဘုန်းတော်ကြီး၏ မှတ်ချက် နှင့် ၁၅ - ၁၀- ၁၆ က ထုတ်ဝေသော အင်ပူမဟာ ထေရုပ္ပတ္တိတွင် မဟာဒွါရနိကာယ တတိယ သာသနာပိုင်ဟူသော ခေါင်းစဉ်ဖြင့် ပုသိမ် မိဂဒါရုံ ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကို အကျဉ်းမျှတွေ့ရှိရပါသည်။ သို့သော် ထိုစာတွင် ဆရာတော်ဘုရား ကြီး၏ ဖွားသက္ကရာဇ် ခု - နှစ် - ရက် - လ တို့ကို စုံစမ်းရှာဖွေ၍မရသဖြင့် အကျဉ်းမျှ ထည့်ထားကြောင်း တွေ့ရှိရပါသည်။ စာ ၃၀၂ - ၃၀၃ တို့ကိုကြည့်ပါ။)

အထက်ပါစာအရ အောက်ပါအတိုင်းသိရပါသည်။

၁၈၃၇ မဟာဒွါရနိကာယ တတိယသာသနာပိုင်ဖြစ်တော်မူသော ၁၁၉၉ ခုဖွား။ ၁၂၈၃ ခုနှစ် သက်တော် ၈၄ နှစ်မြောက်၌ စံလွန်တော်မူသော မိဂဒါရုံ ဆရာတော် ဘုရားကြီးကား ပရိယတ်၊ ပဋိပတ်၊ နက္ခတ်၊ ဗေဒင်အရာတို့၌ အထူးကျွမ်းကျင် လိမ္မာတော်မူ၍ ဥဇုပွင့်ပန္နစသော ဂုဏ်တို့နှင့် ပြည့်စုံတော်မူ၏။ မောင်းထောင် သာသနာပိုင် ဆရာ တော်၊ အရှင်ဉေယျဓမ္မ၏ တပည့်ဖြစ်ငြားသော်လည်း အုဂ်ဖိုရ် ဆရာတော်ဘုရားကြီး၏ နည်းဥပဒေသ ဩဝါဒ အနုသာသနီ လင်္ကာကျင့်သုံးတို့ကို နှလုံးနှစ်ခြိုက် ကြိုက်ညီ သဘောကျသဖြင့် ဒွါရနိကာယက ဂိုဏ်းသို့ ဝင်၍ ဧရာဝတီတိုင်းဖြစ်သော ပုသိမ်ခရိုင် သာသနာပွင့်လင်း တောက်ပတော်မူစေ၏။ ဂဟဋ္ဌသီလ ဝိနိစ္ဆကမ်းနှင့် ဝါဆို ဝါကပ် လထပ်ရက်ငင်စသော ကျမ်းများကို ရေးသား ပြုစုတော်မူ၏။ မိဂဒါရုံ ဆရာတော်ဘုရားကြီး၏ ဖွားသက္ကရာဇ် ခု နှစ် ရက် လတို့ကို စုံစမ်းရှာဖွေ မရဖြစ်၍ အကျဉ်းမျှသာ ထည့်သွင်း ဖော်ပြလိုက်ရပါသည်ဟူ၍ တွေ့ရှိ ရပါသည်။

(ကျမ်းကိုး။ အင်ပူ မဟာထေရုပ္ပတ္တိ စာအုပ်ကြီးကို ပန်းတောင်းမြို့၊ ဆုတောင်းပြည့်ကျောင်း တိုက်၊ အဂ္ဂမဟာ ပဏ္ဍိတ၊ ပန်းတောင်းဆရာတော်ဘုန်းတော်ကြီး၏ မှတ်ချက်နှင့် ၁၅ - ၁၀ - ၁၆၊ ကျမ်းကြီး စာ ၃၀၂ - ၃၀၃ ကို ကြည့်ပါ။)

၁၈၃၂ ကျွန်ုပ်က ဆက်လက်ရှာဖွေသောအခါ ထိုဆရာတော်ဘုရားကြီးသည် ၁၁၉၄ ခု၊ နယုန်လဆန်း ၁၀ ရက်၊ သောကြာနေ့တွင် ဖွားမြင်တော်မူကြောင်း သိရှိရပါသည်။

(ကျမ်းကိုး။ ပုသိမ်လှကြည်၊ စာ ၃၄ - မြတ်မင်္ဂလာစာစောင်၊)

## ရွှမ်းကလေးကျွန်း ဆရာတော်၏ တပည့်ဖြစ်သည်

ဆရာတော်ကြီးမှာ သောကြာနေ့ဖွား ဖြစ်သဖြင့် ရဟန်းဘွဲ့မှာ ဦးသုမနစာရဟူ၍ဖြစ်ပါသည်။ ပိဋကတ်စာပေများ သင်ပေးခဲ့သော ဆရာတော်များမှာ ဒုတိယ မောင်းထောင်သာသနာပိုင် ဆရာတော် အရှင်ဉေယျဓမ္မနှင့် ရွှမ်းကလေးကျွန်းဆရာတော်တို့ ဖြစ်ကြပါသည်။

(ကျမ်းကိုး။ ရွှမ်းကလေးကျွန်း ဆရာတော်အကြောင်းကို စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာတောရ ဆရာတော်၊ ရွှေကျင် နိကာယ၊ စာ ၈၂ ကို ကြည့်ပါ။ ရွှမ်းကလေးကျွန်း ဆရာတော်နှင့် ရဟန္တာအရှင်မြတ်ကြီးဖြစ်သော သီးလုံးဆရာတော်တို့အကြောင်းကို ၁၂၉၁ ခု၊ တော်သလင်းလအတွင်း ပုံနှိပ်သည့် သီးလုံးဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ၊ စုဆောင်းစီရင် ရေးသားသူ ဦးဘခိုင်၊ ရန်ကုန်မြို့၊ ၁၄၁ လမ်း၊ အမှတ် ၃၄ - ၃၆ နေပြည်တော်၊ ထုတ်ဝေရာ ဌာန၊ သုံးဆယ်မြို့၊ သမ္မာဒေဝ ပုံနှိပ်တိုက်၊ စာ ၁၃ - ၄၁ ကို ကြည့်ပါ။)

## ပုသိမ်မှာ အခြေချခြင်း



ဆရာတော် ဦးသုမနစာရသည် ပုသိမ်သို့ မရောက်ခင်က ရေး၊ မြိတ်၊ ထားဝယ်စသော တနင်္သာရီ အနှံ့အပြား ရောက်ဖူးပြီး ၎င်းနောက် ဟင်္သာတ၊ လက်ပံတန်း စသည်တို့ ရောက်ဖူး၏။ ၎င်းနောက် ပုသိမ်သို့ ရောက်သောအခါမှာ အခြေချခြင်းဖြစ်သည်။

ယခု ပုသိမ်ကောလိပ်တည်ရှိရာ ကန်သုံးဆင့်ပတ်ဝန်းကျင်ဝယ် ယခုတိုင် တောရိပ် တောင်ရိပ် ရှိနေသေး၏။ ရှေးရှေးအခါကမူကား တောကြီးမျက်မည်းဖြစ်ကြောင်းသိရပါသည်။ ဆင်များ၊ ကျားများ ပင်ရှိကြောင်းသိရပါသည်။

ထိုအချိန်က ဦးသုမနစာရသည် တောရကျောင်းတွင် တရားအားထုတ်ခဲ့လေသည်။ တောရ ကျောင်းဆိုသည်မှာလည်း ထိုအနီးအနားဝန်းကျင်ပင်ဖြစ်၏။

ထိုအချိန်အခါတွင် ဦးသုမနစာရဟူ၍ လူသိရှင်ကြား ဟိုးလေးတကျော်ကျော် ဖြစ်သွားအောင် အဖြစ်အပျက် တစ်ခုဖြစ်ပွားခဲ့လေသည်။ ထိုအဖြစ်အပျက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

## မီးရှို့၍မလောင်ခြင်း အံ့ဖွယ်

ဆရာတော် ဦးသုမနစာရသည် အမှိုက်ပုံတစ်ခုအနီးတွင် တရားအားထုတ်နေစဉ်အခါ က ထိုအနားမှာရှိသော ယာသမားတစ်ဦးက ဆရာတော် ဦးသုမနစာရ ရှိနေမှန်းမသိ သဖြင့် ထိုအမှိုက်ပုံကြီးကို မီးရှို့လိုက်သည်။ ထိုအမှိုက်ပုံကြီးမီးစွဲ၍ ဟုန်းဟုန်းတောက် နေသောအခါမှ မီးပုံအလယ်တွင် ဆရာတော်ဦးသုမနစာရကို အမှတ်မထင်တွေ့လိုက် ရပေသည်။ မီးတောက်များအလယ်တွင် တရားအားထုတ်နေခြင်းဖြစ်၏။ ထိုအခါ ဆရာတော်ကို အတင်းဝင်ရောက်ပွေ့ချီကာ ယူခဲ့ရလေသည်။ ဆရာတော်ကား ဘာတစ်ခုမှမသိလိုက်ချေ။ မီးရှို့သူကိုလည်း ခွင့်လွှတ်ခဲ့ပါသည်။

ထိုသို့သော အချိန်တွင် ဆရာတော်သည် ထိုအနီးအနားရှိ ရပ်ကွက်ကလေးများထဲသို့ ဆွမ်းခံကြွခဲ့ လေသည်။ ထိုတောကြီးတစ်ဝိုက်သည် ယခုအခါ ရပ်ကွက်ကြီးဖြစ်၍ အထက်တန်းကျောင်းများ ဖြစ်ထွန်းပေါ်ပေါက်ကာ ပုသိမ်တက္ကသိုလ်ကြီးပင် ရှိ၍နေလေပြီ။

## ဆရာတော် ဆွမ်းခံကြွခဲ့သော နေရာများ

ထိုအခါမှစ၍ လူသိများလာသောအခါ ဆရာတော်သည် လူများကိုရှောင်ကာ တရားအားထုတ် ရလေသည်။ ထိုနေရာများမှာ ကိုးသိန်း၊ ရေတွင်းကုန်း၊ ရေကျော်၊ သစ်ညိုကုန်း၊ မြို့ချောင်း စသော နေရာများဖြစ်လေသည်။

၁၈၇၆ ၁၂၃၈ ခုနှစ် တွင် ပုသိမ်မြို့ ကန်သုံးဆင့် အနောက်ဘက်ရှိ ဆင်နေ ကျားအောင်း တစ်ပါးတည်း တောနက်ကြီးထဲတွင် ဝိပဿနာဒူရကို ဆောက်တည်ခဲ့သည်ဟု သိရပါသည်။

၁၈၈၁ ၁၂၄၂ ခုနှစ်တွင် ယခု မိဂဒါဝုန်ကျောင်းဖြစ်သည့် နေရာတွင် သီတင်းသုံးခဲ့ပါသည်။

၁၈၈၂ ၁၂၄၃ ခုနှစ်တွင် မိဂဒါဝုန်ကျောင်းတိုက်တွင်း ပိဋကတ်တိုက် ဆောက်လုပ်သည်။

၁၈၈၃ ၁၂၄၅ ခုနှစ်တွင် မိဂဒါဝုန်ကျောင်းရှေ့၌ သီဟိုဠ်ကျွန်းမှ ပင့်ဆောင်လာသော သဃမိတ္တာ ဗောဓိပင်ကို စိုက်ပျိုးတော်မူသည်။



၁၈၉၈ ၁၂၆၀ ပြည့်နှစ်တွင် မန်လည်ဆရာတော်ဘုရားကြီး ပုသိမ်မြို့သို့ ကြွတော်မူလာသည်။

၁၉၁၃ ၁၂၇၅ ခုနှစ်တွင် ဒွါရဂိုဏ်းကြီး၏ တတိယမြောက် သံဃရာဇာ သာသနာပိုင်အဖြစ် အပ်နှင်းခြင်း ခံတော်မူရသည်။

၁၉၂၁ ၁၂၈၃ ခုနှစ်တွင် တန်ခူးလဆုတ်တွင် ညောင်စောင်း၌ မလှုပ်မယှက် လျောင်းစက်ကာ စကားမပြော ဆွမ်းဘောဇဉ် မသုံးဆောင်တော့ဘဲ နေသည်။

၁၉၂၁ အေဒီ ၁၉၂၁ ခု မေလ ၄ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၂၈၃ ခုနှစ်၊ တန်ခူးလဆုတ် ၁၂ ရက်) သက်တော် ၈၉ ဝါတော် ၆၉ အရောက်တွင် မည်သည့် ဝေဒနာမျှ မခံစားရဘဲ ခန္ဓာဝန်ချတော်မူသည်။

ဎင်းနောက် ၁၂ လ ကာလပတ်လုံး အလောင်းတော်ကို ပူဇော်ထားသည်။

၁၉၅၇ ဎင်းနောက် အေဒီ ၁၉၅၇ ခု ဖေဖော်ဝါရီ ၃ ရက်၊ တနင်္ဂနွေနေ့ (၁၃၁၈ ခုနှစ် တပို့တွဲလဆန်း ၄ ရက်) တနင်္ဂနွေနေ့ ညဥ့်ဦးအချိန်အခါတွင် ရုပ်ကလာပ်တော်ကို ပြန်လည် တူးဖော်ခြင်း ဖြစ်သည်။

## ခန္ဓာဝန် မချခင်ကတည်းက အုတ်လိုဏ်ဂူ လုပ်ထားခြင်း အံ့ဖွယ်

၁၉၁၇ ၁၂၇၉ ခုနှစ်တွင် ( ခရစ် ၁၉၁၇ ခုနှစ် ) တွင် ဆရာတော်သည် အုတ်လိုဏ်ဂူတစ်ခုကို လုပ်စေခဲ့ လေသည်။ အကြောင်းထူးရှိမည်ဟု အားလုံးက ရိပ်မိကြလေသည်။

## ပိတောက်ပင်ကြီး အလိုလို သေခြင်း

၁၉၂၁ တစ်ရံရောအခါ ကျောင်းတိုက်၏ ရှေ့ဘက်တွင် ရှိသော ပိတောက်ပင်ကြီး ၃ ပင်သည် ခြောက်သွေ့ကာ အလိုလို သေသွားလေသည်။ ထိုပိတောက်ပင်နှင့် လင်းလွန်းပင်ကြီးမှာ ၁၂၈၂ ခုနှစ် ( ခရစ်နှစ် ၁၉၂၁ ခုနှစ်) က သီဟိုဠ်ကျွန်းမှ ပင့်ဆောင် စိုက်ပျိုးထားသော အပင်ကြီးများဖြစ် လေသည်။

## အလောင်းကို ဒီလိုဏ်ဂူထဲ သွင်းကြဟု မိန့်ခဲ့

၁၉၂၂ ထိုအခါ ဆရာတော်က အမိန့်ရှိတော်မူသည်မှာ ငါ ခန္ဓာဝန်ချလျှင် မီး မသင်္ဂြိုဟ်ကြနဲ့၊ ပွဲလမ်းသဘင် မလုပ်ကြနဲ့၊ အလောင်းကို ဒီလိုဏ်ဂူထဲ သွင်း ထားကြဟု ကြိုတင်မိန့်တော်မူပါသည်။ ၁၂၈၃ ခုနှစ် ( ခရစ် ၁၉၂၂ ခု )တွင် ဆရာတော်သည် ခန္ဓာဝန်သိမ်းတော်မူသည်။

## အလောင်းတော်ကို ခိုးယူရန် ကြံကြခြင်း

နောက်နှစ် တပေါင်းလအထိ အပူဇော်ခံ အလောင်းတော်သည် ပုပ်သိုးခြင်း မရှိချေ။ ထိုအခါ အကြည်ညိုလွန်ကဲ သူများက အလောင်းတော်ကို ခိုးယူရန် ကြိုးစားကြလေသည်။ ထို့ကြောင့်လည်း အလောင်းတော်ကို အဆင့်ဆင့် ဂူသွင်းကာ ဂူပေါ်တွင် စေတီပေါက်၍ ပူဇော်ခဲ့ကြလေသည်။

## ၃၅ နှစ် ကြာမှ သိရခြင်း အံ့ဖွယ်

ဂူထဲတွင် ရုပ်ကလာပ်ကို ကျွန်းသားခေါင်း၊ ကြေးခေါင်း၊ မှန်ခေါင်းဟူ၍ သုံးထပ်ဖြင့် အဆင့်ဆင့် ဂူသွင်းထားကြောင်းသိရသည်။ ထိုဂူကို နောက်ထပ် နှစ်ပေါင်း ၃၅ နှစ်ကြာသောအခါ



ပြန်လည်တူးဖော်ရာ မပုပ်မသိုးတွေ့ရှိရသဖြင့် ယခုထက်တိုင် အပူဇော်ခံထားသည်ကို ပုသိမ်ရောက်သူတိုင်း ဖူးမြော်နိုင်ပါသည်။

## အိုးထဲထည့်ထားသော ဆီများ အလိုလိုလျှံကျလာခြင်း

ကျွန်တော်တို့ ပုသိမ်တွင် အသည်ကြီးရပ်ကွက်ဟူ၍ရှိသည်။ ထိုအရပ်တွင် ဦးရန်စိုက်ဟူသော တရုတ်လူမျိုး ဗုဒ္ဓဘာသာဝင်တစ်ယောက်ရှိလေသည်။ သူ၏ဇနီးမှာ ဒေါ်ချင်းမဖြစ်၏။ တရုတ်လူမျိုးဖြစ်သော်လည်း ဘုရားဒကာ၊ ကျောင်းဒကာဖြစ်သဖြင့် ကျောင်းဒကာကြီး ဦးရန်စိုက်ဟူ၍လည်းကောင်း၊ ကျောင်းအစ်မကြီး ဒေါ်ချင်းမဟူ၍ လည်းကောင်း၊ လူသိများလှပါသည်။

အသည်ကြီး ရပ်ကွက် ကုန်သည်လမ်းမှ နေ၍ ကန်သုံးဆင့်ရှိရာ အရပ်သို့ လမ်းလျှောက်သွားလျှင် ၂ မိုင်၊ ၃မိုင်လောက်ဝေးပါသည်။ ထိုအခါ ကန်သုံးဆင့် တောရကျောင်းတွင် တရားအားထုတ်နေသော ဆရာတော်ကြီးထံသို့ ဦးရန်စိုက်သည် နေ့စဉ်လိုလို အဖူးမြော်သွားလေ့ရှိပါသည်။

နေ့စဉ်လိုလိုပင် ဆရာတော်ကြီး၏ တရားစကားများကို ကြားရသောအခါ ဦးရန်စိုက်သည် ကျောင်းတွင် နေသည့်အချိန်က ပို၍ပို၍ များလာသဖြင့် မိမိ၏စီးပွားရေး လုပ်ငန်းများကို ဇနီးဖြစ်သူ ဒေါ်ချင်းမအား လွှဲအပ်ထားလိုက်လေသည်။

## ကိုယ်ရောင် ကိုယ်ဝါများ ထွက်ခြင်း

ဆရာတော်ကြီး ဦးသုမစာရသည် တရားရှုမှတ်နေသောအခါ ကိုယ်တော်မှ ကိုယ်ရောင်ကိုယ်ဝါများ ကွန်မြူးနေသည်ကို ဦးရန်စိုက် မကြာမကြာတွေ့နေရသဖြင့် ဆရာတော်ကြီး၏ တောရကျောင်းတွင်ပင် အချိန်ပြည့်နေထိုင်ခဲ့လေသည်။

## ပထမ အုတ်ပိုဆရာတော်ကြီး ကြွရောက်ခြင်း

၁၈၈၁ ဆရာတော်ကြီးကိုလည်း ကျောင်းကြီးတစ်ဆောင် ဆောက်လုပ်လှူဒါန်းခဲ့လေသည်။ ထိုကျောင်းသည် မိဂဒါရုံ ကျောင်းတိုက်ကြီးပင် ဖြစ်သည်။ ကျောင်းဒကာကြီး ဦးရန်စိုက်သည် အေဒီ ၁၈၈၁ (၁၂၄၃ ခုနှစ်)တွင် ပိဋကတ်တိုက်ကြီး တစ်တိုက်လုံးကိုပင် ထပ်မံဆောက်လုပ်လှူဒါန်း ပြန်လေသည်။

ထိုအခါ ရေစက်ချမင်္ဂလာအခမ်းအနားသို့ ဒွါရသာသနာပိုင် ပထမ အုဂ်ဖိုရ် ဆရာတော်ကြီးကိုယ်တိုင်သွားရောက် ရေစက်ချပေးခဲ့ပါသည်။

## ဆီအိုးများ အမြဲ လျှံကျခြင်း

ဤအထိမထူးဆန်းသေးပါ။ ထူးဆန်းသည်မှာ ဘုရားဒါယကာကြီး ဦးရန်စိုက် ကျောင်းအစ်မကြီးဒေါ်ချင်းမတို့၏ ဆန်အိုး၊ ဆီအိုးများသည် လျော့သွားသည်မရှိဘဲ အမြဲတမ်းပြန်၍ပြန်၍ အလိုလိုပြည့်လာခြင်းဖြစ်သည်။

စီးပွားရေးလုပ်ငန်းအရ ဦးရန်စိုက်သည် ဆီအရောင်းအဝယ်လုပ်လေသည်။ ဦးရန်စိုက်၏ ဆီအိုးကြီးသည် လျော့သွားသည်မရှိဘဲ အမြဲတမ်းဝေ၍ လျှံကျနေတတ်သဖြင့် ရပ်နီးရပ်ဝေး ကျော်ကြားလှပေသည်။ အလွန်အံ့ဖွယ်ကောင်းပေသည်။

(ကျမ်းကိုး၊ မောင်ပန်းမွှေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၁၂)၊ ၂၀-၆-၂၀၀၅။ )



## အံ့ဖွယ်မန်လည်ဆရာတော်နှင့် အံ့ဖွယ် အရှင်သုမနစာရ

အထက်မန်လည် အောက်လယ်တီတောင်ပေါ်တွင် ရသေ့ကြီးဦးခန္တီဟူ၍ မိုးမြေမဆန့် ကျော်ကြားသောကာလဖြစ်ပေသည်။

## မန်လည်ဆရာတော်၏ အိပ်မက်

ထိုအိပ်မက်ထဲမှ ဆရာတော်ကြီးသည် ပုသိမ်မိဂဒါရုံ ဆရာတော်ကြီးဖြစ်ကြောင်း သိရသောအခါ မန်လည်ဆရာတော်ဘုရားကြီးသည် ပုသိမ်သို့အရောက်သွားကာ မိဂဒါရုံဆရာတော်ဘုရားကြီးကို ဖူးမြော်ခဲ့လေသည်။

မိဂဒါရုံဆရာတော်ဘုရားကြီးသည် ပရိယတ္တိဘက်ကလည်း ထူးချွန်ပြည့်စုံသော ဆရာတော်ကြီးဖြစ်ပေသည်။ ကျမ်းပေါင်းများစွာကို ပြုစုခဲ့ကြောင်း သိရပါသည်။ ထိုကျမ်းများထဲတွင် ဒဿသီလ၊ ဝိနိစ္ဆယကျမ်း၊ ဝိန္ဓနာဒိဝိနိစ္ဆယကထာ၊ သင်္ကာယဒိဋ္ဌိကထာ၊ ဩဝါဒကထာစာတမ်း၊ ယထာဝိနယဝဿုပနာယိကစာတမ်းအပါအဝင် ကျမ်းပေါင်းများစွာဖြစ်ကြောင်းသိရပါသည်။

## တတိယဒွါရ သာသနာပိုင်

၁၉၁၄ ခရစ် ၁၉၁၄ ခုနှစ်၊ (၁၂၇၅-ခုနှစ်) တွင်ဆရာတော် ဦးသုမန စာရသည် တတိယမြောက် ဒွါရသာသနာပိုင် တင်မြှောက်ခြင်းခံရကြောင်းသိရှိရပါသည်။

## မန်လည် ဆရာတော်ဘုရားကြီးသည် အိပ်မက်အရ
## မိဂဒါရုံ ဆရာတော်ဘုရားကြီးအား လာရောက်ဖူးမြော်ခြင်း

၁၈၉၈ အေဒီ ၁၈၉၈ ခု (၁၂၆၀ ပြည့်နှစ်) တွင် မန်လည်ဆရာတော်ဘုရားကြီး ပုသိမ်မြို့သို့ ကိုယ်တော်တိုင် ကြွရောက်တော် မူကြောင်း သိရပါသည်။ ထိုအချိန်တွင် မန်လည်ဆရာတော်ဘုရားကြီးမှာ ခြေတစ်ဖက်သိမ်နေ၍ ထမ်းစင်ဖြင့်ထမ်းသွားကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၆)

ထိုအချိန်တွင် မန်လည်ဆရာတော်ဘုရားကြီး၏နဖူးထက်တွင် ရဟန္တာတစ်ပါး စကြီလျှောက်သွားသည်ဟု အိပ်မက်မက်မြင်တော်မူသည်ဟုသိရပါသည်။ နံနက်လင်းသောအခါ ပုသိမ်မြို့ပေါ်တွင် ရဟန်းထူးပုဂ္ဂိုလ်ထူးများ ရှိမရှိ မေးမြန်းစုံစမ်းရာ ပုသိမ်မိဂဒါရုံဆရာတော်ဘုရားကြီးအကြောင်းကို သတင်းရရှိသည်ဟုဆိုပါသည်။

ထိုကြောင့်လောကီလောကုတ် စွယ်စုံပေါက်မြောက်အောင်မြင်တော်မူသော ပုသိမ်မိဂဒါရုံ ဆရာတော်ဘုရားကြီးကို မန်လည်ဆရာတော်ဘုရားကြီးသည် လှူဖွယ်ပစ္စည်းများဖြင့် လှူဒါန်းပူဇော်၍ သာသနာရေးရာများကို လျှောက်ထားပြီးလျှင် ပြန်၍လာခဲ့သည်ဟုဆိုပါသည်။

## ကျောင်းဝရောက်မှ နောက်တစ်ကြိမ် ပြန်လာပြီး ပူးပြန်ခြင်း အံ့ဖွယ်

သို့သော် ထူးဆန်းသောအချက်မှာ ပြန်လာ၍ မိဂဒါရုံကျောင်းတိုက်ကြီး၏ ဂိတ်ပေါက်ဝသို့ ရောက်သောအခါ မိဂဒါရုံဆရာတော်ဘုရားကြီးကို နောက်တစ်ကြိမ်ပြန်၍ ဖူးချင်စိတ်



ပေါ်လာပြန်သဖြင့် ကျောင်းတိုက်အပေါက်ဝရောက်ခါမှ တစ်ဖန်ပြန်လှည့်ပြီးလျှင် နောက်တစ်ကြိမ် ဖူးမြော်ခဲ့ပြန်လေသည်။ အလွန်ထူးသော ဖြစ်ရပ်မှန်ဖြစ်ပါသည်။

ထိုအခါ မန်လည်ဆရာတော်ဘုရားကြီးက မိမိကိုယ်၌ ရှိလွှမ်းထားသော အလွန်အဖိုးထိုက်တန်သည့် ကတ္တီပါ ဒုကုဋ်သင်္ကန်းကြီးကို အလှူခံတော်မူပါဘုရားဟု မိဂဒါရုံဆရာတော်ဘုရားကြီးကို လှူဒါန်းလိုက်လေသည်။

## မန်လည်ဆရာတော်က သင်္ကန်းတော်လှူခြင်း

ထိုအခါ သီလ သမာဓိ ပညာကြီးမားတော်မူသော မန်လည်ဆရာတော်ဘုရားကြီး လှူဒါန်းသော သင်္ကန်းကြီးကို အလှူခံလိုက်သော်လည်း သုံးစွဲခြင်းမပြုဘဲ သိမ်တော်ကြီးထဲတွင် သီတင်းသုံးနေတော်မူသော ဈော‌င်းတော်မူကိုယ်တော်ကြီးကို သွားရောက်တင်လွှမ်း လှူဒါန်းလိုက်ပြန်လေသည်။

## အံ့ဖွယ် ပုသိမ် မိဂဒါရုံဆရာတော်

မန်လည်ဆရာတော်ဘုရားကြီးသည် သာမန်ပုဂ္ဂိုလ်မဟုတ်၊ အလွန်ဘုန်းကံကြီးမားသော ပညာရှိပုဂ္ဂိုလ်ထူးတစ်ဆူ ဖြစ်ပေ၏ဟု မိဂဒါရုံ ဆရာတော်ဘုရားကြီးက မိန့်တော်မူကြောင်းသိရှိရပါသည်။ ရဟန်းထူး ရဟန်းမြတ်များ၏ အကြောင်းအရာများကို ကြားနာမှတ်သားရသည်မှာ ကြက်သီး ထလောက်အောင် ကြည်ညိုဖွယ်ရာဖြစ်ချေ၏။

(ကျမ်းကိုး။ (၁) ပုသိမ် လှကြည်၊ ပုသိမ်မြို့မှ အံ့ဖွယ် မိဂဒါရုံ ဆရာတော်ကြီး၊ မြတ်မင်္ဂလာ စာ ၃၄ - ၃၆၊ (၂) ပုသိမ်မြို့၊ သတိပဋ္ဌာန်နည်းပြ ဆရာတော်၊ ဦးအာစိဏ္ဏ အရှင်သူမြတ်၏ မိဂဒါရုံဆရာတော်ဘုရားကြီး အတ္ထုပ္ပတ္တိကထာ၊) (၃) စကြာကောင်းစံ၊ ထူးထူးခြားခြား၊ မိဂဒါရုံ ဆရာတော်ဘုရားကြီး။)

ရဟန္တာဘုန်းတော်ကြီး

# ဦးသီလ

အေဒီ ၁၈၃၂ – ၁၉၀၇ ( ၁၁၉၄ – ၁၂၆၉ )



တော်ဝင်ဦး



ရဟန္တာဘုန်းတော်ကြီး ဦးသီလ၏ အကြောင်းအရာတို့ကို မြန်မာ့ စွယ်စုံကျမ်းတွင် ထင်ရှားစွာ ဖတ်ရှုရပါသည်။ ၎င်းအပြင် ဂျာနယ် မဂ္ဂဇင်းများတွင် ထွေထွေလာလာ ဖတ်ရှုရသည်မှာ ဖတ်၍ မငြီးနိုင်ပေ။ သို့သော်လည်း အချက်အလက် အသစ်များကလည်း ဂျာနယ် မဂ္ဂဇင်းလာ၊ ဆောင်းပါး ဆရာတို့၏ ကောင်းမှုကြောင့် မကြာခဏဖတ်ရှုရသဖြင့် သာသနာတော်ကို ကြည်ညိုမဆုံးနိုင်အောင် ရှိရပါတော့သည်။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃ ခု၊ မေလ စာမျက်နှာ ၂၀၈ မှ ၂၄၄ အထိ တဝကြီးဖတ်ရှုရပေသည်။ ၎င်းအပြင် သီးခြား စာအုပ်ငယ်များလည်းဖတ်ရှုရပေသေးသည်။ ဘိုမင်းဖြူ(ဥပဒေ)၏ ဦးသီလစာအုပ်ငယ်မှာ လည်း အလွန်ဖတ်ရကျိုးနပ်ပေသည်။ ၎င်းအပြင် မြန်မာ့စွယ်စုံကျမ်းတွင်လည်း ဦးသီလ အကြောင်းကို မကျဉ်းမကျယ် ဖတ်ရှုရပေသေးသည်။)

**ဤစာပြုသူကိုယ်တိုင်လည်း အချစ်ဂျာနယ်တွင် ဆောင်းပါးတစ်ပုဒ် ရေးခဲ့ပေသေးသည်။ ထိုဆောင်းပါးမှာ အသစ်အဆန်းဖြစ်၏။ မီးရထားသမိုင်းနှင့် ပတ်သက်၏။**

ရန်ကုန်မြို့တွင် သယ်န်းကျွန်းဘူတာဟူ၍ တသီးတခြားအားဖြင့် ရှေးကမရှိဘဲ နောင်မှ အသစ်အဆန်းဖြစ်ပေါ်လာရသည်မှာ ရဟန္တာဟု ကျော်ကြားသော ဦးသီလ ကိုယ်တော်ကြီးကို ပူဇော်လိုသောကြောင့် ဘူတာအသစ်တီထွင်ကာ ဖွင့်လှစ်ပေးခဲ့ ကြောင်းဖော်ပြခဲ့ပါသည်။ ထိုစာတွင် ဘာသာခြားလူမျိုး မင်းကြီးကိုယ်တိုင်က ဗုဒ္ဓ ဘာသာသို့ ကူးပြောင်းခဲ့ကြောင်း၊ ရဟန္တာအရှင်မြတ်ကြီး ဦးသီလကိုလည်း အထူး ကြည်ညိုသဖြင့် လူအများတို့သည် ဦးသီလအား အလွယ်တကူဖူးမြော်နိုင်ရန် ဦးသီလ ကိုယ်တော်ကြီး သီတင်းသုံးတော်မူသော သယ်န်းကျွန်းနေရာတွင် ဘူတာအသစ် တီထွင်ကာ ဆောက်လုပ်ပေးခဲ့ကြောင်း ထူးထူးခြားခြား မီးရထားသမိုင်းကို လမ်းညွှန် ဖော်ပြထားပါသည်။

(ကျမ်းကိုး၊ မောင်ပန်းမွေး၊ အချစ်ဂျာနယ်)

ဤတွင် တစ်သက်ပတ်လုံး ဖတ်ရှုသင့်သော စာအုပ်တစ်အုပ်မှာ ပဲခူးမြို့ ကြခတ်ဝိုင်း ပဓာနထေရ် အရှင်ဇောတိပါလ ရေးသားပြုစုသော ပဲခူးတောရ အရညဝါသီ ဦးသီလ ဗိမာန်တော်သမိုင်းနှင့် ဦးသီလ ထေရုပ္ပတ္တိဝိဘာဝနီကျမ်းပင်ဖြစ်ပါသည်။

(ထိုကျမ်းကို ၁၉၈၂ ခု၊ ဩဂုတ်လ၊ ၁၃၄၄ ခု ဒုတိယဝါဆိုလတွင် ဒုတိယအကြိမ် ရိုက်နှိပ်ခဲ့ပါ သည်။ ဤဦးသီလ ဗိမာန်တော်သမိုင်းနှင့်တကွ ဦးသီလ ထေရုပ္ပတ္တိ ဝိဘာဝနီကျမ်းတွင် ဦးသီလကိုယ်တော်ကြီးအကြောင်းကို စာမျက်နှာပေါင်း ၄၀၆၊ ခေါင်းစဉ်ငယ်ပေါင်း နှစ်ရာကျော်တို့ဖြင့် အထူးပြည့်စုံစွာ ပြုစုထားကြောင်းတွေ့ရှိရပါသည်။ အရှင်ဇောတိပါလ ကိုယ်တော်ကြီး ကျေးဇူးကြောင့် ဤရွှေဉာဏ်မျှ ပြည့်စုံစွာ ဖတ်ရှုရသဖြင့် မမေ့နိုင်အောင် ရှိပါတော့သည်။)

ထို့ကြောင့်လည်း အလွန်ကြည်ညိုဖွယ်ရာ ကောင်းလှသော မျက်မှောက်ခေတ် ရဟန္တာ ပုဂ္ဂိုလ် ထူး၏အကြောင်းကို နောင်လာနောင်သားများ သိရှိနိုင်စေရန် ကျွန်ုပ်က ထပ်မံကုသိုလ်ယူလိုသဖြင့် ထပ်ဆင့်ကောက်နုတ်ဖော်ပြအပ်ပါသည်။ ထပ်ဆင့် ကုသိုလ်ယူနိုင်ပါစေသတည်း။

ရဟန္တာဟု ကျော်ကြားတော်မူသော ဘုန်းတော်ကြီး ဦးသီလ၏ သာသနာပြုပုံ ပြုနည်းများ မကွယ်မပျောက် အတုယူလိုက်နာစေရန် ရည်သန်၍ ဦးသီလ ဗိမာန်တော်အဆောက်အအုံကြီးကို နာယက



ဆရာတော်ဘုရားကြီးများ ဦးဆောင်ဦးရွက်ပြု၍ ကြခတ်ဝိုင်းဆရာတော်မှ ကွပ်ကဲပြီးလျှင် ပဲခူးမြို့ ကြခတ်ဝိုင်း ပရိယတ္တိစာသင်တိုက်အတွင်း၌ ကြခတ်ဝိုင်းသာသနာပြု အမျိုးသားအမျိုးသမီးများအသင်းက တာဝန်ယူကာဆောင်ရွက်မှုကြောင့် အကောင်အထည်ဖော်ခဲ့ကြောင်းသိရှိရပါသည်။ ကျွန်ုပ် ထုတ်နုတ်ထားသော မှတ်စုမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(ကျမ်းကိုး၊ စာ ၊ ၂၄။)

ထိုဗိမာန်တော်တွင် ပန်းချီကားကြီးများ အောက်၌ ရေးသားထားသော စာသားများမှာ ဘုန်းတော်ကြီးဦးသီလ၏ ဘဝရုပ်ပုံလွှာ မဟာထေရုပ္ပတ္တိကထာ တစေ့တစောင်းဖြစ်သဖြင့် နောင်လာနောက်သားများ အလွယ်တကူသိရှိနိုင်ရန် အောက်တွင်ကူးယူဖော်ပြပါမည်။

၁၈၃၂ ၁။ ပဲခူးမြို့ မြောက်ဘက် သုံးမိုင်အကွာ ဇိုင်းဂနိုင်းကြီးရွာ၌ အေဒီ ၁၈၃၂(၁၁၉၄ ခုနှစ်) တွင် အဘဦးထွန်းအောင်၊ အမိဒေါ်ချို့တို့မှ ဖွားမြင်၍ ၁၂ နှစ်သားအရွယ်တွင် ကျိုက်ဒေးယျံအနီး ကော့ပြင်းဝိုင်ရွာ ကော့ပြင်းဝိုင်ကျောင်း ဘုန်းကြီးဦးမှူးထံ အပ်နှံကာ ရှင်ပြုလျက် ရှင်သီလပညာ စာသင်ယူနေပုံကို ဖော်ပြထားပါသည်။

၂။ ရှင်သီလသည် ကျိုက်ဒေးယျံ ဘုရားကုန်းသိမ်၌ ရဟန်းပြုပြီး ပညာတတ်မြောက် မန္တလေး စစ်ကိုင်း စသည်မှ ပဲခူးသို့ပြန်ရောက်၍ ကြီးမားသော သံဝေဂစိတ်ဖြင့် လာကမ္ဘိ၊ ဈေးညောင်ပင် ဘောင်းတော်ကျ စသည့် တောတန်း တောင်တန်း သုသာန်တို့၌ လှည့်လည်သီတင်းသုံးနေတော်မူပုံကို ဖော်ပြထားပါသည်။

၃။ ကျိုက်ထိုမြို့နယ် ကျိုက္ကသာရွာအနီး နာမည်ကြီး ကော့စန်တောရ၌နေစဉ် နှာကိုးပေါက်ရှိ ၁၂ တောင်ခန့် စပါးကြီးမြွေဆိုးကြီးများ မကြာခဏ လာရောက်ချဉ်းကပ်လှုပ်ရှား ကြရာ လာမနှောင့်ယှက်ရန် မိန့်လိုက်တိုင်း ဤသို့နာခံလူးလွန့် ပြန်ထွက်သွားကြပုံကိုဖော်ပြထားပါသည်။

၄။ မော်လမြိုင်တစ်ဖက်ကမ်း ဘီလူးကျွန်းရှိ ရွာလွတ်ဒကာများ ကျိုက်ကွဲတောင်မှ ပင့်လာ၊ ကျိုက်ဒေးတောင်ပေါ်သို့ရောက်စ အားလုံးမောပန်း ရေငတ်နေကြစဉ် အဲဒါရေပေါ့ဟု လက်ညှိုးညွှန်၍ မိန့်ရာ၌ သွားကြည့်၍ ထွက်ကျနေသော ရေများကိုတွေ့သဖြင့် အံ့သြစွာခပ်ယူနေကြပုံကို ဖော်ပြထားပါသည်။

၁၈၆၆ ၅။ အေဒီ ၁၈၆၆(၁၂၂၈ ခုနှစ်)တွင် ကျိုက်ဒေးယျံရွာ ဘုရားအနီး စိန်အင်းတောရ၌နေစဉ် ထိုခေတ်က နာမည်ကြီး ကျားဆိုးများသည် ညဥ့်အခါ လေးတိုင်စင်ကျောင်းကလေးအောက်နှင့် ကုဋီလမ်းဘေးတို့၌ ယဉ်ကျေးသကဲ့သို့ ကြောင်အလားနွားသဖွယ် သွားလာလျက် အချို့အိပ်၍နေကြပုံကို ဖော်ပြထားပါသည်။

၁၈၈၂ ၆။ အေဒီ ၁၈၈၂(၁၂၄၄ ခုနှစ်)တွင် ရွှေကျင်မြို့ ဆိတ်ကလေးတောရ၌ နေစဉ် ဝင်းခနိမ်ရွာသို့ ဆွမ်းခံအကြွ တစ်ခုသောတောစပ်ရှိ မုဆိုး၏ ညွှတ်ကွင်း၌ ခြေထောက်စွပ်မိနေ၍ စုံရပ်နေစဉ် ညွှတ်ရှင် မုဆိုးလည်း လာရောက်မဖြုတ်ဝံ့၊ ဆွမ်းချိန်ကလည်းနီး၊ နောက်မှ ဝမ်းနည်းလှစွာ ငိုယိုလာဖြုတ်နေပုံ၊ ထိုနေ့ ဆွမ်းတစ်နပ် လပ်သွားသည်ကို ဖော်ပြထားပါသည်။

၁၈၆၄ ၇။ အေဒီ ၁၈၆၄(၁၂၂၆ ခုနှစ်) ဇိုင်းဂနိုင်းကြီးသား အဖော်ဦးဝဏ္ဏနှင့် ဘုန်းတော်ကြီးတို့ အနာဂတ်သာသနာအတွက် စာသင်တိုက်သည် ဝိနည်းပြုပွဲလုပ်ဖို့ရန်နေရာ လိုက်လံရှာကြရာ ရေကန်နှင့် ကြခတ်ဝါးတောအရိပ်ကို နှစ်သက်ကာ ရွေးချယ်လိုက်ကြပုံ၊ (နောင် ကြခတ်ဝိုင်းကျောင်းတိုက်ဟု တွင်လတ္တံ့)ကို ဖော်ပြထားပါသည်။



၁၉၀၀ ၈။ အေဒီ ၁၉၀၀(၁၂၆၂ ခုနှစ်)တန်ဆောင်မုန်းလတွင် ညောင်လေးပင် ဝိနည်းစာပြန်ပွဲနှင့် ရှမ်းရွာသိမ်သမုတ်မှအပြန် ပျဉ်ပုံရွာအနီး၌ အရှိန်အဟုန်ဖြင့် အထက်မှ စုန်ဆင်းလာသော မီးရထားကြီးသည် ရုတ်တရက်ထိုးရပ်သွားသဖြင့် ဝိုင်းဝန်း စုံစမ်းကြရာ ဘုန်းတော်ကြီးကိုတွေ့၍ သူ့ထက်ငါလုယက် တအံ့တသြဆင်းဖူးကြပုံ (ရွှေလှေတံတားအနီးနှင့် သယ်န်းကျွန်းဘူတာအနီးတို့၌လည်း ရပ်ဖူးသေးသည်)ကို ဖော်ပြထားပါသည်။

၉။ ပဲခူးချောင်းဖျား ကမ်းမြင့်ရွာ သုသာန်ဇရပ်၌ တစ်ညဉ့် တည်းခိုစဉ် ကျွဲနွားနှင့် လူအများ ဝင်ဆွဲလေ့ရှိပါသည့် ကျားဆိုးကြီးအတွက် များစွာစိုးရိမ်နေကြ၏။ ကျားစာဖြစ်နေပြီ အထင်နှင့် နံနက်လာရောက်ကြည့်ကြရာ ကျားဆိုးကြီးနှင့် သုံးတောင်မျှသာကွာလျက် ဤသို့ ဣန္ဒြေရရ နေကြသည်ကို တွေ့ရ၍ အံ့သြနေပုံကို ဖော်ပြထားပါသည်။

၁၀။ ကျိုက်ဒေးယျုံရွာအနီး တစ်ခုသောတောတ၌နေစဉ် ရွှေလှေရွာသား မုဆိုးကြီး ဦးကော်သည် သားကောင်များ လိုက်လံပစ်ခတ်စဉ် သားကောင်ထင်၍ သေနတ်ဖြင့် အမိအရချိန် သုံးကြိမ်ထပ်ခါပစ်သော်လည်း မီးမကူး၍ အပေါ်သို့ ထောင်ပစ်ရာ ကျည်ဆက်မထွက်၊ တောကြီးဟိန်း၊ ဘာ့ကြောင့်မပြေးသနည်းဟု အံ့သြစွာဝင်ကြည့်ရာ ဘုန်းတော်ကြီးအားတွေ့ရသဖြင့် များစွာထိတ်လန့် စိတ်မချမ်းမသာဖြစ်နေပုံကို ဖော်ပြထားပါသည်။

၁၁။ ကျိုက်ပဒိုင်နှင့် ဈေးညောင်ပင်အကြား ဂူကုန်းတောရ၌ နေစဉ် အမြဲသီတင်းသုံးသော ဂူကြီးပြိုကျသွားကြောင်း အရိုးအသားပင်၊ ပြန်ရတော့မည်မဟုတ်ကြောင်း နွားကျောင်း သားများက ပြေးပြောသဖြင့် ရွာနီးချုပ်စပ်မှ စိုးရိမ်တကြီးပြေးလာ၊ ဤသို့တွေ့ရှိကြ၊ ပြင်ပမှကယ်တော်မူပါဟု ထပ်ကာတအား အော်နေသောအသံများကြောင့် ထွက်ကြည့်စဉ် ပြိုသွားကြောင်းမိန့်သဖြင့် အံ့သြဝမ်းမြောက်စွာ ဖူးနေကြပုံကို ဖော်ပြထားပါသည်။

၁၈၉၆ ၁၂။ အေဒီ ၁၈၉၆(၁၂၅၇ ခုနှစ်) ကျိုက်ထိုမြို့နယ် ခရွဲတောင် တောရ၌နေစဉ် တောဆင်ရိုင်းများသည် အုပ်ဖွဲ့ကာ ဘုန်းတော်ကြီး၏အနီးသို့ မကြာခဏ လာလေ့ရှိကြရာ သင်တို့ မနှောင့်ယှက်ကြနှင့်ဟု မိန့်လိုက်လျှင် လူစကားကို နားလည်သကဲ့သို့ အားလုံးငြိမ်သက်စွာ ဤသို့ နောက်ဆုတ်သွားလေ့ရှိကြပုံကို ဖော်ပြထားပါသည်။

၁၃။ ဝမ်းဘဲအင်း ဒေးစွန်ပါ တောရ၌နေစဉ် ကပ္ပိယကြီး ဦးအာကာသည် ညဉ့်စဉ် မီးလှုံစဉ် သူ၏ မီးပုံ၌လှုံရင်း အိပ်မောကျ ဟနေသော ကျားဆိုးကြီး၏ ပါးစပ်ထဲသို့ မီးစဖြင့် ထိုးထည့်ရန် စိတ်ကူးမိ၊ ကျားဆိုးကြီး ရုတ်တရက် ထဟိန်း၊ ပြူးစိုက်ကြည့်နေစဉ် ကပ္ပိယကြီး မေတ္တာမပျက်နဲ့၊ သူလဲ လှုံ၊ ကိုယ်လဲ လှုံပေါ့ ဟု မိန့်လိုက်မှ ကျားဆိုးကြီး ငြိမ်သွားပုံကို ဖော်ပြထားပါသည်။

၁၈၈၈ ၁၄။ အေဒီ ၁၈၈၈(၁၂၅၀ ခုနှစ်) ကျိုက်ထိုမြို့ ကင်မွန်းစခန်းအနီး သက်ငယ်ကျင်း တောရ၌ နေစဉ် တစ်ခုသော ကိစ္စဖြင့် မောင်တောင်တောသို့ ကြွ၍ ပြန်အလာ လမ်းကလေးအကြား၌ နာမည်ကြီး တောဆင်ရိုင်းကြီးနှင့် ပက်ပင်း ဆုံမိရာ ယင်းတောဆင်ရိုင်းကြီးသည် ဘုန်းတော်ကြီးရှေ့မှောက် ရောက်စဉ် ပုဆစ်တုပ်ဝပ်ကျကာ မျက်ရည်များကျလျက် ခေါင်းငုံ့ထားပုံကို ဖော်ပြထားပါသည်။



၁၅။ ကျိုက်ထိုမြို့ ဆိပ်ဖူးတောင်၌နေစဉ် မယ်ဇယ်ကျောင်းမှအပြန် မယ်ဇယ်ဘုန်းကြီးနှင့်အတူ လမ်းအကြား၌ နွားဆိုးကြီးနှင့် ဆုံမိပြီး အနီးရောက်စဉ် ယင်းနွားဆိုးကြီးသည် ကိုယ်ရှိန်သတ်၍ ယဉ်ကျေးသကဲ့သို့ နောက်ဆုတ်ရှောင်တိမ်းသွားပုံကို ဖော်ပြထားပါသည်။

၁၉၀၆ ၁၆။ အေဒီ ၁၉၀၆(၁၂၆၈ ခုနှစ်)တွင် မော်လမြိုင် တစ်ဖက်ကမ်းရှိ ဘီလူးကျွန်းကွမ်သဲတောရ၌ ဝါဆို၍ မြစ်ဝကျွန်းရှိ ပန်းတနော်၊ ဓနုဖြူ ဇလွန်အထိ ၁၀ ဌာန သိမ်သမုတ် ကြွတော်မူပါရန် မင်းခရာဘုန်းကြီး ဦးဝိမလနှင့်ဒကာများ ပင့်လျှောက်ကြ၍မီးသင်္ဘောကြီးဖြင့်ကြွရန် ဆင်းလာကြပုံကို ဖော်ပြထားပါသည်။

၁၇။ ဇလွန်မြို့၌ ထိုခေတ်က နာမည်ကြီး ဦးပုလဲ၏ စင်တော်ကြီး ရုပ်ပွဲကပြနေ၏။ ၁၀ ဌာန သိမ်သမုတ်ရန် ကြွလာသော ဘုန်းတော်ကြီး၏ မီးသင်္ဘောကြီးမှာလည်း ပန်းတနော် ဓနုဖြူစသည် သိမ်သမုတ်ခဲ့၍ နောက်ဆုံးတွင် ဆိုက်ကပ်၍ တစ်မြို့လုံး ထွက်ကြိုကြရာ ပွဲကြည့်သူ မရှိ၍ ပွဲသိမ်းလိုက်ရပုံကို ဖော်ပြထားပါသည်။

၁၈။ အလွန်အားနည်း၍ ရောဂါဖောက်ပြန်နေသော်လည်း နောက်တစ်နေ့ ကဆုန်လဆုတ် ၃ ရက်နေ့တွင် အစီအစဉ်အတိုင်း ဇလွန်မြို့ သုသာန်တောရ (ယခု ပုပ္ပါရုံ/ဓမ္မိကာရုံ) ကျောင်း၌ နေ့ချင်းအပြီး သိမ်သမုတ်ပေး၍ တစ်နေ့လုံး ကြည်လင်နေလျက် တရားချီးမြှင့် ရေစက်ချ အဖူးအမြော်ခံနေပုံ နောက်ဆုံး သီတင်းသုံး ဖူးမြင်ရသောနေ့ပါတည်းဟု ဖော်ပြထားပါသည်။

၁၉။ ဇလွန်မြို့ သုသာန်တောရကျောင်း၌ နေ့ချင်းအပြီး သိမ်သမုတ်ပေး၍ ညဉ့်တွင် ဆေးဝါးများကို ပယ်မြစ်လျက် သတိ သမ္ပဇဉ ခန့်တည်ပြည့်ဝသဖြင့် တစ်ချက်မျှ အလွတ်မရှိဘဲ ယင်းကဆုန်လဆုတ် ၄ ရက်၊ တနင်္လာနေ့ နံနက် ၇ နာရီတွင် ခန္ဓာဝန် ဒုက္ခတုံးကြီးကို အပြီးတိုင် ရှဲ့မုန်းစွန့်လွှတ်တော်မူပုံကို ဖော်ပြထားပါသည်။

၂၀။ ဇလွန်နယ်မြေတပြင်လုံး သိမ့်သိမ့်တုန်မျှ လျောင်တော်လဲ ပဲ့တင်ဟည်းကာ မဟာပထဝီမြေကြီး တုန်လှုပ်လျက် သက်မဲ့သစ်ပင်တို့သည်လည်း အသက်ဝင် အသက်ရှင်သကဲ့သို့ မြူးရွှင်တက်ကြွပြီး အပြိုင်အဆိုင်အခါမဲ့ (အကာလပုပ္ဖ၊ အကာလဖလ) သီးကြပွင့်ကြ၍ သူထက်ငါ ဦးအောင် ပူဇော်အလေးပြုနေကြပုံကို ဖော်ပြထားပါသည်။

၂၁။ ဘုန်းတော်ကြီး အလောင်းတော်၏ လေးဘက်လေးတန်၌ ညဉ့်စဉ် ဖယောင်းတိုင်များဖြင့် မီးထွန်းညှိကြရာ မကြာခဏ မီးအလျှံအားလုံးတို့သည် အတွင်း(အလောင်းတော်ဘက်)သို့သာ တအား စောင်းငဲ့၍ တော်တော်ကြာကြာ ဦးညွှတ်ဖူးမြော်နေကြသည်ကို ဤသို့ ဖူးမြင်ကြရပုံကို ဖော်ပြထားပါသည်။

၂၂။ ပြင်ဆင်ထားသော ဘုန်းတော်ကြီး အလောင်းတော်၏ အနီး၌ ညဉ့်စဉ် မကြာခဏ ဘုန်းတော်ကြီးတစ်ပါးက သင်္ကန်းရုံ သပိတ်ပိုက် ရှေ့မှ လှည့်လည်ကြွ၍ နတ်လိုလို ဗြဟ္မာလိုလို ပုဂ္ဂိုလ်ကြီးတစ်ဦးက ထီးမိုးလိုက်ပါ လှည့်လည်နေသည်ကို ဤသို့ဖူးမြင်ကြပုံကို ဖော်ပြထားပါသည်။

၁၉၀၈ ၂၃။ အေဒီ ၁၉၀၈(၁၂၇၀ ပြည့်နှစ်) တပို့တွဲလဆုတ် ၂ ရက် ၂ နာရီ သင်္ဂြိုဟ်ရန် သတ်မှတ်ထားသော်လည်း ဘုန်းတော်ကြီး၏ မွေးဖွားရာမှစ၍ မီးသင်္ဘောဖြင့် သာသနာပြုကြွ၊ ဇလွန်မြို့ရောက်သည်အထိ ဘဝဖြစ်စဉ် ပန်းချီ ပန်းပု သရုပ်ဖော်ကားချပ်များ ယိမ်းအဖွဲ့အသီးသီးတို့၏ အဆိုအငိုများ၌ စိတ်ဝင်စား အချိန်ကုန်သွား၍ နောက်နေ့နံနက် ၈ နာရီမှ သင်္ဂြိုဟ်ကြရပုံကို ဖော်ပြထားပါသည်။



၂၄။ ဘုန်းတော်ကြီး အလောင်းတော်မှာ ၉ လ ထားသော်လည်း အနံ့မနံ ပုံဟန်မပျက် တအံ့တသြဖြစ်ကြရလျက် မီးသဂြိုဟ်ပြီးနောက် ဓာတ်တော်များကို ဈာပနအဖွဲ့မှ သိမ်းဆည်းပြီး အကြွင်းအကျန်များကို ယူခွင့်ပြုလိုက်ရာ ဓာတ်တော်များသာမက မီးသွေး၊ ပြာ၊ ရာဇမတ်ဝါးများ ပါကုန်၍ မြေကြီးပင် တွင်းကြီးဖြစ်ကျန်ခဲ့ပုံကိုဖော်ပြထားပါသည်။

၂၅။ အိမ်သို့ရောက်၍ မိမိရလာသော အရိုးပြာများကို ရေမွှေးပုလင်း၌ ထည့်ထားရာ ဖြူဖွေးလှသော အလုံးကလေးများ ထင်ရှားလျက် တက်ချည် ဆင်းချည်ဖြင့် တက်ကြွ ကွန့်မြူးနေသည်ကို တွေ့ရ၍ ဓာတ်တော်များဖြစ်ကြောင်း သိရှိပြီး အံ့သြဝမ်းမြောက်စွာ သူထက်ငါ လုယက်ဖူးမြင်ကြရပုံကို ဖော်ပြထားပါသည်။

၂၆။ သဂြိုဟ်ရာဌာနတွင် ညဥ့်ဘက် ညဥ့်ဘက်မှာ မီးလုံးကြီးများ မကြာခဏ ပျံတက်လျက် တစ်ခါတရံ ပိုးစုန်းကြူးများကဲ့သို့ ဓာတ်တော်တွေ မြူးကြွနေခြင်းအတွက် တစ်နေ့လုံး ပွဲကြီးအဖြစ် စည်ကားလျက် ဆွမ်းဆန်စိမ်းလောင်းလှူပွဲ လုပ်ကြပြန်ရာ လှည်းပေါင်း တစ်ထောင်ကျော် အရပ်ရပ်မှ လာရောက် လောင်းလှူ ပူဇော်ကြပုံကို ဖော်ပြထားပါသည်။

၂၇။ သဂြိုဟ်ရာဌာနတွင် ညဥ့်ဘက် ညဥ့်ဘက်မှာ ဓာတ်တော်များ မကြာခဏ မြူးကြွနေ၍ ထိုနေရာတစ်ခုလုံးကို ငုံလျက် သဲပုံစေတီ တည်ကြ၏။ ထိုသဲပုံစေတီမှလည်း ညဥ့်စဉ်လို မီးလုံးကြီးများ ပျံတက် မြူးကြွနေပြန်၏။ ထိုဓာတ်တော်များ ပျံတက် မြူးကြွနေသော သဲပုံစေတီကို အဝေးမှ ဤသို့ မြင်ကြရပုံကို ဖော်ပြထားပါသည်။

၂၈။ ယင်းသဲပုံစေတီမှ ပြာနှင့် ရောနေသော သဲများကို ရေဖန်ခွက်၌ ထည့်ထားလျှင် သဘော်ာစေ့ခန့် ပုလဲရောင် အလုံးကလေးများ ငုပ်ချည်ပေါ် ချည် မြူးကြွနေရင်း သဲများပင် စိတ်မချရဖြစ်လာ၊ ထို့ကြောင့် ထိုနေရာ၌ ထိုသဲများဖြင့် ဉာဏ်တော် သံတောင် ၃၀ ရှိ အခိုင်အမာ အုတ်စေတီထပ်တည်။ ဓာတ်တော်များ ဌာပနာပုံကို ဖော်ပြထားပါသည်။

(ကျမ်းကိုး၊ အရှင်ဇောတိပါလ ပဲခူးကြခတ်ဝိုင်း၊ ပဓာနထေရိ အရှင်ဇောတိပါလ၊ ဦးသီလ ဗိမာန်တော်သမိုင်းနှင့် ဦးသီလထေရုပ္ပတ္တိ ဝိဘာဝနီကျမ်း၊ ဒုတိယအကြိမ် ၁၉၈၂ ခု၊ ဩဂုတ်)

## ငယ်အမည်မှာ မောင်ရွှေသာ ဖြစ်ကြောင်း

၁၈၃၂ တောရမထေရ်ရှင် ဘုန်းတော်ကြီး ဦးသီလသည် ပဲခူးမြို့မြောက်ဘက် သုံးမိုင်ခန့်သာကွာဝေးသော အထက်ဇိုင်းဂနိုင်းကြီးရွာ၌ အေဒီ ၁၈၃၂ ၊ (သက္ကရာဇ် ၁၁၉၄ ခုနှစ်၊ နတ်တော်လဆန်း ၈ ရက်) သောကြာနေ့ နံနက် ၈ နာရီအချိန်တွင် အဘ ဦးထွန်းအောင်၊ အမိ ဒေါ်ချို့တို့မှ မီးရှူးသန့်စင် ဖွားမြင်တော်မူသည်။

မွေးချင်း ပေါက်ဖော်တို့မှာ - (၁) ဦးရွှေသာ၊ (၂) ဒေါ်သူဇာ၊ (၃) ဒေါ်အို၊ (၄) ဒေါ်လှအောင်၊ (၅) ဦးဘိုးကျော် တို့ဖြစ်ကြသည်။ ဘုန်းတော်ကြီး၏ ငယ်မည်မှာ မောင်ရွှေသာဖြစ်သည်ဟု သိရပါသည်။



## မင်းမှုထမ်းဘဝ ကုန်သည်ဘဝ အကြောင်း

မောင်ရွှေသာ၏ အဘိုးမှာ မြန်မာဘုရင်လက်ထက် ဗန်းကြီးဆောင်းရ မင်းမှုထမ်းတစ်ဦး ဖြစ်သည်။ ထိုမင်းမှုထမ်းသည် ဗန်းကြီးများကို မြစ်၌မျှောပြီးလျှင် မိမိဂုဏ် (မင်းမှုထမ်းအဖြစ်)ကို သိုဝှက်၍ အောက်ပြည်သို့ စုန်ဆင်းလာ၏။ ပဲခူး ဝိုင်းဂနိုင်းကြီးသို့ ရောက်သောအခါ ကုန်သည်ဘဝဖြင့် ချမ်းသာစွာ အသက်မွေး၍ နေထိုင်လေသည်။ ထိုမှဆက်၍ ဤသို့ အစဉ်အတိုင်း ပေါက်ဖွားလေသည်ဟု သိရပါသည်။ ဘုန်းတော်ကြီး၏အဘိုးမှာ မြန်မာဘုရင်လက်ထက် ဗန်းကြီးဆောင်းရ အမှုထမ်းတစ်ဦး ဖြစ်၏ဟု ဓမ္မာစရိယဦးဌေးလှိုင်က ရေးသားခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၀၊ ဘုရားကလေး ဥက္ကံရွာကိုမောင်ထင်က ပြောကြားခဲ့ပါသည်။ ဦးဌေးလှိုင် စာ - ၂၀၉ ကို ရှုပါ။)

## ဒေါ်သူဇာ၏ အဆက်အနွယ်တို့အကြောင်း

ဘုန်းတော်ကြီး၏ နှမအကြီးဒေါ်သူဇာကား ဘုရားကလေးဘူတာ အရှေ့တောင်ဘက် ဥက္ကံ (အုတ်ကန်)ရွာသို့ နောင် ပြောင်းရွှေ့နေထိုင်၏။ ပစ္စည်းဥစ္စာကြွယ်ဝ၍ ထင်ရှား၏။ သူ၏ သားသမီး များအနက် သားဦးလူခင်သည် ယခု ဘုရားကြီးဘူတာရွာ၌နေ၏။ အသက် ၆၅ နှစ် ကျန်းမာစွာရှိ၏။ မြေစာရင်း အင်စပိတ်တော်ပင်စင်စားဖြစ်၏။ သမီး ဒေါ်မြသည် ဘုရားကြီးရွာ၌ပင်နေ၏။ အသက် ၅၉ နှစ် မြေပိုင်ရှင် ဆန်စက်ပိုင်ရှင်ဖြစ်၏။ သမီးကြီး ဒေါ်နှစ်ကား ကွယ်လွန်လေပြီဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၁)

## ဇာတိ အမှန်မှာ ဝိုင်းဂနိုင်းကြီးရွာ ဇာတိသာဖြစ်၏

ဘုရားကလေးအနီး ဥက္ကံရွာ၌ ဒေါ်သူဇာ ကြွယ်ဝထင်ရှားခြင်းတို့ကိုစွဲ၍ တစ်မျိုးလုံးသိမ်းပြီး ဘုရားလေးရွာတွင် ဖွားမြင်သည်ဟု မှတ်ထင်ပြောဆိုကြကြောင်း အမှန်မှာ ညီအစ်ကိုမောင်နှမ ငါးယောက် လုံး ဝိုင်းဂနိုင်းကြီးရွာ၌သာဖွားမြင်ကုန်၏။ ဘုရားကလေး ဥက္ကံရွာသို့ ပြောင်းရွှေ့နေထိုင်သူကား ဒေါ်သူဇာတစ်ဦးတည်းသာ ဖြစ်ချေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၂ ဦးလူခင်တို့ မောင်နှမနှစ်ယောက်က ပြောကြားပါသည်။)

## ဆွေစဉ်မျိုးဆက်များဇယား

ကာလကြာသော် ဘုန်းတော်ကြီး ဦးသီလ၏ ဆွေစဉ်မျိုးဆက်များမှ ပျောက်ဆုံးလုလု ဖြစ်သွားမှာ စိုးရပါသည်။ မြန်မာ့စွယ်စုံကျမ်းတွင်လည်း မှတ်တမ်းတွေ့ရပါသည်။ အထူးကား အောက်ပါဇယား ဖြစ်၏။

ဒေါ်အို၏ သားသမီးများအနက် ဒေါ်နှင်းရုံနှင့် ဒေါ်ညွန့်တို့သည် ဘုရားကြီးရွာ၌ပင် ကုန်သည်ဘဝဖြင့် ယခု ရှိကြ၏။ သား - ဦးပါတူ၊ ဦးအောင်၊ သမီးဒေါ်တင့်၊ ဒေါ်လှရင် တို့ကား ကွယ်လွန်ကုန်ပြီ။ ဒေါ်လှအောင်၏ သားသမီးများအနက် ဦးထွန်းဝင်းသည် ယခုကျောက်ဆည်မြို့၌နေ၏။ မြေစာရင်း အင်စပိတ်တော် ပင်စင်စားဖြစ်၏။ သမီး ဒေါ်အေးခင်သည် ဥက္ကံရွာ၌ ကုန်သည်ဘဝဖြင့် ယခုရှိ၏။ သားဦးဘိုးမြ၊ သမီး ဒေါ်နှင်း၊ ဒေါ်မိန်းကလေးတို့ကား ကွယ်လွန်ကုန်ပြီ၊ ဦးဘိုးကျော်သည် ရဟန်းအဖြစ်သို့ ရောက်၍ ရဟန်းငယ်ဘဝ နှစ်ဝါရလောက်တွင် ပျံလွန်တော်မူလေပြီဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၃၊ ဦးလူခင်တို့ မောင်နှမနှစ်ယောက်က ပြောကြားပါသည်။)

## ဓားပြကြောင့် အသက်ဆုံးရှုံးရသော မယ်တော်ကြီးဒေါ်ချို



ဘုန်းတော်ကြီး ဦးသီလသည် ဘုန်းတန်ခိုးအလွန်ကြီးမားတော်မူကြောင်း ဟိုးဟိုးကျော်သည်နှင့် အမျှ ဘုန်းတော်ကြီး၏ မယ်တော်ကြီးဖြစ်သူ ဒေါ်ချိုသည်လည်း လူသိများလိမ့်မည်မှာ ယုံမှားဖွယ်ရာ မရှိပါ။ ထိုအချက်နှင့်စပ်လျဉ်း၍ ဘုန်းတော်ကြီးဦးသီလသည် ရွှေကျောင်တောရတွင် သီတင်းသုံးနေစဉ်တွင် မယ်တော်ကြီးဖြစ်သူ ဒေါ်ချိုသည် တပ်ကလေးတောရ၌ သီတင်းသုံးလျက်ရှိ၏။ ဓားပြ လက်ချက်ကြောင့် အသက်ဆုံးရသော ဖြစ်ရပ်မှန်ကိုလည်း အံ့ဖွယ်ဖတ်ရှုရပါသည်။

ဘုန်းတော်ကြီး၏ မယ်တော်ကြီးဒေါ်ချိုသည် တပ်ကလေးတောရ၌ ဘုန်းတော်ကြီးနှင့် အတူ ဝတ်ကြီးဝတ်ငယ်ပြုလျက် သီလရှင်ဝတ်နှင့်နေ၏။ ဘုန်းတော်ကြီးကား တစ်နေ ရာမှ တစ်နေရာသို့ပြောင်းရွှေ့သော်လည်း မယ်တော်ကြီးကား တပ်ကလေးတောရ၌သာ တရားနှလုံးသွင်း၍နေရစ်၏။

၁၈၇၉ အေဒီ ၁၈၇၉၊ (၁၂၄၁ ခုနှစ်) ဘုန်းတော်ကြီး ရွှေကျောင်တောရ၌ သီတင်းသုံးခိုက် မယ်တော်ကြီး သီတင်းသုံးရာ တပ်ကလေးတောရ၌ ဓားပြလူဆိုးများ ဝင်ရောက်လာ ကြ၏။ ဥက္ကံရွာ သမီးဖြစ်သူ ဒေါ်သူဇာထံမှ ငွေသုံးထောင်နှင့် ရွှေအစိတ်သား အပ်ထား သည်ဟု သတင်းရ၍ လာတိုက်ခြင်းဖြစ်၏။ အတင်းတောင်း၏။ မရှိကြောင်းပြောပြ၏။ မအပ်တာလည်းအမှန်ဖြစ်၏။ သို့သော် မယုံကြည်ကြ။ ထပ်တလဲလဲ ရိုက်နှက်ကြ၏။ မယ်တော်သီလရှင်ကြီး၏ တောင်းပန်နေသောအသံသည် လူဆိုးများ လက်နက် အောက်တွင် တဖြည်းဖြည်းအားလျော့သေးသိမ်ကာ သားနှင့်ဘုရားကိုတလျက် ဝိညာဉ် ချုပ်ရရှာလေ၏။ ဘုန်းတော်ကြီးအား ရွှေကျောင်တောင်ဘက်ရှိ ဆိတ်ကလေးတောရသို့ လိုက်၍ပင့်ကြရ၏။ မယ်တော်ကြီး အလောင်းကို မီးသင်္ဂြိုဟ်၍ ပြာကျသည့်တိုင်အောင် အသုဘ ဘာဝနာ ပွားတော်မူ၏။ မီးမငြိမ်းမီပင် မီးသင်္ဂြိုဟ်ရာမှ ရွှေကျောင်သို့ ပြန်ကြွ တော်မူ၏။

(ကျမ်းကိုး။ ယင်း စာ ၊ ၂၃၂)

## ဆရာတော်ကြီး၏ မြေး မြစ် စဉ်ဆက် ဇယား

ဘုန်းတော်ကြီးဦးသီလ၏ ဆွေတော်စဉ် မျိုးတော်စဉ်နှင့်စပ်လျဉ်း၍ မှတ်မှတ်သားသား ပြောသူများရှိကြပါသည်။ ဘုန်းတော်ကြီး၏ မြေးတော်သူတစ်ဦးမှာ ဒေါ်လှသင်ဆိုသူဖြစ်၏။ ဘုန်းတော် ကြီး၏နှမ ဒေါ်သူဇာ၏ခင်ပွန်းမှာ ရွှေလန်းဆိုသူဖြစ်၏။ ဒေါ်လှသူ၏ခင်ပွန်းသည်မှာ ဦးရွှေနုဆိုသူ ဖြစ်၏။ ဦးရွှေဖူး ဆိုသူမှာကား ဒေါ်လှသင်၏ အမေ့ ဦးလေးဖြစ်ကြောင်း မှတ်သားရပါသည်။

၁၉၇၇ ဘုန်းတော်ကြီး ဦးသီလနှင့် စပ်၍ ၁၉၇၇ ခုနှစ် ဇန်နဝါရီလ ၁၇ ရက်နေ့က ဘုန်းတော်ကြီး၏ မြေးတော်သူ (ဒေါ်အို ခေါ် ဘုန်းတော်ကြီး၏နှမ ဒေါ်လှသူ၏မြေး) အသက် ၆၈ နှစ်ရှိ ဒေါ်လှသင်သည် အောက်ပါအတိုင်းပြောပြ၏။ ယင်းဒေါ်လှသင်မှာ ကျောက်ဆည်မြို့ ဈေးအနောက်ဘက်၌နေ၏။ ဘုန်းတော်ကြီး၏နှမ ဖွားသူဇာ၏ ခင်ပွန်းသည် ဦးရွှေလန်းဖြစ်၏။ ဒေါ်အိုခေါ် ဖွားလှသူ၏ ခင်ပွန်းသည် ဦးရွှေနု ဖြစ်၏။ ဘုန်းတော်ကြီး အတ္တုပ္ပတ္တိလာ 'ဆရာဖိုးကလေး'မှာ ဒေါ်လှသင်၏ အမေ့ ဦးလေး ဦးရွှေဖူးပင်ဖြစ်၏။ ယင်းရွှေဖူးမှာ ဆေးဆရာဖြစ်၏။ အသက် ၉၀ နေရ၏။ သူ၏မြေးများက 'ဆရာအဖိုးကလေး'ဟု ခေါ်ကြ၏ဟု သိရပါသည်။

(ကျမ်းကိုး။ ယင်းစာ - ၂၄၇၊ ဒေါ်လှသင် ကျောက်ဆည် အသက် ၆၈ ပြောကြားပါသည်။)



## ကြခတ်ဝိုင်းဆရာတော်၏ မှတ်တမ်း

ဘုန်းတော်ကြီး ဦးသီလ၏ မဟာရုပ်ပုံလွှာကို ဝီရိယရှေ့ထား ဦးစွာပူဇော်သူမှာ ကြခတ်ဝိုင်းဆရာတော်ကြီး ဦးဇောတိပါလဖြစ်ပါသည်။ အထူးအားကိုးရသောစာဖြစ်၏။

၁၉၃၉ အထက်ပါ အကြောင်းအရာတို့ကို ကြခတ်ဝိုင်း အရှင်ဇောတိပါလသည် အေဒီ ၁၉၃၉ ခု၊ ဇွန်လ ၆ရက်၊ (၁၃၀၁ ခုနှစ်၊ နယုန်လဆုတ် ၅ ရက်၊) အင်္ဂါနေ့ ညနေတွင် ဘုရားကြီး ဘူတာရွာအရှေ့ ဦးဘိုးအုန်း၊ ဒေါ်မြတို့၏ စက်ရုံတောင်ဘက်ရှိ အိမ်ကြီးပေါ်၌ မှတ်တမ်းရေးသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၃၊ မြေစာရင်း အင်စပိတ်တော် ဦးလှခင်နှင့် ဆန်စက်ပိုင်ရှင် ဒေါ်မြတို့ ပြောပြကြသည်။)

## သက်သတ်လွတ်စားသော အလေ့အထ မမွေးခင်က

တရံရောအခါတွင် ဘုန်းတော်ကြီးဦးသီလက သက်သတ်လွတ်စားခြင်းနှင့်ပတ်သက်၍ ငါ သွားနာလို့စားတာဟု မိန့်တော်မူဖူးကြောင်း တစ်ဆင့်စကားသိရပါသည်။ မူရင်းအချက်မှာ ဤသို့ တွေ့ရပါသည်။

ဘုန်းတော်ကြီး အလောင်းအလျာ မောင်ရွှေသာ ပဋိသန္ဓေတည်နေစဉ်အခါ မယ်တော်ကြီးဒေါ်ချိုအား အာသာဆန္ဒတို့မှာ သီလသီတင်းစောင့်ထိန်းလို၏ဟူ၍လည်းကောင်း၊ သက်သတ်လွတ်အမြဲစားလို၏ဟူ၍လည်းကောင်း၊ သူတစ်ပါးအား သနားကြင်နာစိတ်၊ ရဟန်းသံဃာတော်တို့အား ဖူးမြင်လိုစိတ်၊ ပေးကမ်းလှူဒါန်းလိုစိတ်များနှင့်တကွ ထူးခြားစွာဖြစ်လာကုန်၏။ ထို့ကြောင့် သီလမြဲစေလျက် အသက်နှင့်စပ်သော အစာဟူသမျှကိုရှောင်၍ ထန်းလျက်၊ ပေါက်ပေါက်၊ ငှက်ပျောသီး၊ အုန်းသီး၊ ဟင်းရွက်ဟင်းသီးစသည်တို့ဖြင့်သာမျှတကာ နေလေ့ရှိလေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၄၊ ပဲခူးဆရာဖူးရေးသော အတ္ထုပ္ပတ္တိမှ သိရှိရပါသည်။ )

## ရဟန်းအဖြစ်သို့ ရောက်ခြင်း

ဘုန်းတော်ကြီး ဦးသီလသည် သိပေမင်း ပါတော်မူသောအခါ သက်တော် ၃၄ နှစ်အရွယ်သို့ရောက်ပြီဖြစ်ကြောင်း သိရပါသည်။ ရဟန္တာအရှင်မြတ်ကြီးသည် အသက်ငယ်ငယ်က ပဲခူးတွင် နေခဲ့၏။ အသက် ၁၂ နှစ်တွင် ရှင်ပြု၏။

၁၈၄၂ ယင်း မောင်ရွှေသာသည် အေဒီ ၁၈၄၂ ခု၊ ( ၁၂၀၄ ခု ) ၁၀ နှစ်သားတွင် ပဲခူးအနောက်မြောက် ကျိုက်ဒေးယျာရွာအနီး ကော့ပြင်းရွာ ဘုန်းကြီးဦးမှူးထံ အပ်နှံပညာသင်စေသည်။

၁၈၄၆ အေဒီ ၁၈၄၆ ခု၊ (၁၂၀၆ ခု ) အသက် ၁၂ နှစ်တွင် ရှင်သာမဏေအဖြစ်သို့ရောက်သည်။ ဘွဲ့တော်မှာ (ရှင်သီလသာရ)ဖြစ်သည်။

၁၈၅၁ အေဒီ ၁၈၅၁ ၊ (၁၂၁၃ ခုနှစ် တပို့တွဲလ) တွင် ကျိုက်ဒေးယျာ ဘုရားကုန်းရှိ မင်္ဂလာခဏ္ဍာသိမ်တော်၌ ပီလခတ်ရွာဦး ဘုန်းတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်သည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၅၊ ပဲခူးဆရာဖူးရေးသော အတ္ထုပ္ပတ္တိမှ သိရှိရပါသည်။)

## ဘုန်းတော်ကြီး၏ အရပ်နှင့် အသားရောင် စသည်



ဘုန်းတော်ကြီးဦးသီလ၏ ပုံပန်းသဏ္ဍာန်ကို မမြင်ဖူးသူများ မမြင်ဖူးသော်လည်း ကြည်ညိုနိုင်အောင်ဟူ၍ မှတ်တမ်းထဲတွင် ရှာဖွေတွေ့ရှိရပါသည်။ အောက်တွင်ဖတ်ကြည့်ပါ။

ဘုန်းတော်ကြီး ဦးသီလသည် ဆရာ (ဘုန်းကြီးပုံ)နှင့်အတူ နှစ်နှစ်တာမျှ လိုက်ပါဝါကပ်၍ နောက်ကာလတွင် နေရာအနှံ့အပြား တစ်တောထွက်ဝင် အရညကင် ဓုတင်ဆောင်တော်မူ၏။ ပဲခူး ပတ်ဝန်းကျင်နှင့် ကျိုက်ထို၊ သထုံ၊ မော်လမြိုင်၊ မုဒုံ၊ ဘီလူးကျွန်း စသည်ဖြင့် ဝါဆိုရန် မတတ်နိုင်အောင် ရှိလေသည်။ သွားလေရာ ပိတ်မိုးကျောင်းထိုး၍နေ၏။ အမြဲနေရာမရှိ။ စောင်ဟူ၍မရှိ။ ချမ်းလျှင် သားရေနွယ်အခင်းကိုခြုံ၏။ ဘုန်းတော်ကြီး၏အရပ်မှာ ငါးပေခွဲခန့် ပျပ်ပျပ်ပါးပါးရှိ၏။ အသားတော် ဖြူဝါ၍ဝင်းနေ၏။ သာသနာရေးနှင့်စပ်လျှင် ပင့်ရာသို့ ကြွရောက်ချီးမြှောက်၏။ စိတ်ဆန္ဒအလွန်ထက်၏။ ဖြောင့်စင်း၏။ ပဋိပတ်အရာ၌ အလွန်သို ဝှက်၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၁၇၊ ဓမ္မာစရိယဦးဌေးလှိုင်က မှတ်တမ်းတင်ခဲ့ပါသည်။)

## ပရိယတ် ပဋိပတ် အားထုတ်တော်မူခြင်း

ဘုန်းတော်ကြီးဦးသီလ၏ ငယ်ဆရာများမှာ ပုဂ္ဂိုလ်ထူး ရဟန်းထူးများဖြစ်ကြပါသည်။ ဆရာစဉ်ဆက် နည်းနာခံ၍ ဘုန်းကြီးပုံ၏ တပည့်ကြီးအဖြစ် တောစဉ်တောင်စဉ် အားထုတ်ခဲ့ကြောင်း ဦးစွာပထမ လေ့လာတွေ့ရှိရပါသည်။ ရဟန္တာအရှင်မြတ်ကြီးအဖြစ် ဟိုးဟိုးမကျော်မီက ငယ်ရုပ်ပုံလွှာများဖြစ်သဖြင့် အထူးအတုယူသင့်ပါသည်။ အောက်တွင်ကြည့်ပါ။

ရဟန်းဘဝ နှစ်ဝါအရတွင် ပဲခူးမြို့ ဘုန်းကြီးပုံခေါ် ဆရာတော် ဦးစန္ဒာလက်ာရထံ၌ ၅ ဝါတိုင်တိုင် ပရိယတ္တိဓမ္မများကို ဆက်လက်သင်ကြား အားထုတ်တော်မူသည်။ ထို့နောက် - (က) စစ်ကိုင်းတောင်ရိုး အရိယဝံသ ရေငုံတိုက်၊ (ခ) မန္တလေးမြို့ အရှေ့ပြင် စလင်းတိုက်စသော စာသင်တိုက်ကြီးများ၌ ပရိယတ္တိဓမ္မများ ဆက်လက်သင်ကြားတော်မူခဲ့သည်။

ထို့နောက် ပညာတတ်မြောက်၍နေရင်း ပဲခူးမြို့သို့ ပြန်လည်ရောက်ပြီး မြင့်မားနက်ရှိုင်းသော ကျင့်ဝတ် ပဋိဝတ် သံဝေဂစိတ်ဓာတ်တို့က အမြဲတမ်းနှိုးဆွတိုက်တွန်း ခဲ့သည့်အလျောက် ပဲခူးအနောက်ဘက် လာကမို့ရွာ၊ ဈေးညောင်ပင်ရွာ၊ ကျိုက်ပဒိုင်ရွာစသည်တို့၏ တောင်တန်းနှင့် တောင်စောင်းများ၌လည်းကောင်း၊ ထိုရွာများ၏ သုသာန်တစပြင်တို့၌လည်းကောင်း၊ တစ်လှည့်စီ သီတင်းသုံးအားထုတ်တော်မူသည်။

ထိုနောက်မှ (တောရဂိုဏ်းအစဦးသီလ)ဟူ၍လည်းကောင်း၊ (ကြခတ်ဝိုင်းအစဦးသီလ)ဟူ၍လည်းကောင်း၊ (ဝိနည်းစာပြန်ပွဲအစဦးသီလ)ဟူ၍လည်းကောင်း ထင်ရှားခဲ့သည့် အားလျော်စွာ တစ်ခုပြီးတစ်ခု သာသနာမှုပြုလျက် ပရိယတ်ပဋိပတ်ကျင့်နှစ်ရပ်ကို တရစပ်ဇောက်ချအားထုတ်တော်မူသည်။ ထိုမှဆက်၍ နေရာအနှံ့အပြား တစ်တောဝင်တစ်တောထွက်၊ တစ်တောင်တက်တစ်တောင်ဆင်းဖြင့် - (၁) တိစီဝရိတ် ဓုတင်၊ (၂) အရညကင် ဓုတင်၊ (၃) ပံ့သကူ ဓုတင်၊ (၄) ပိဏ္ဍပါတ်



ဓုတင်၊ (၅) ရုက္ခမူ ဓုတင်၊ (၆) အဗ္ဘောကာသိက ဓုတင်၊ (၇) ကောသနိက် ဓုတင်၊ (၈) ပတ္တပိုဏ် ဓုတင် စသည်အားဖြင့် ခေါင်းပါးခြိုးခြံလုံ့စွာ ကျင့်အပ်သော အကျင့်မြတ်တို့ကို ထိုက်သလို ကျင့်ဆောင်လျက် မျှတ နေထိုင်တော်မူ၏။

(ကျမ်းကိုး။ ယင်း စာ ၊ ၁၉၆၊ ပဲခူးဆရာဖူးရေးသော အတ္ထုပ္ပတ္တိမှ သိရှိရပါသည်။)

## အပိုပစ္စည်း မသိမ်းဆည်း

ရဟန္တာအရှင်မြတ်ကြီး၏ အလေ့အထများမှာ မည်သည့်ခေတ်မဆို အတုယူ ကြည်ညိုသင့်သည်သာ ဖြစ်ပါသည်။ အပိုပစ္စည်း မသိမ်းဆည်းသောဝလေ့တော်ကို လေ့လာတွေ့ရပါသည်။

ထို့အတူ ကျိုက်ထို၊ သထုံ၊ မော်လမြိုင်၊ မုဒုံ၊ ဘီလူးကျွန်း စသည်နှင့် ညောင်လေးပင်၊ ဖြူး၊ ရွှေကျင်၊ တောင်ငူ စသည်တို့တိုင်အောင် သတ္တဝါတို့ကို ချီးမြှင့်ရင်း စိတ်ချမ်းသာမှုနှင့် အားထုတ်မှုကိုသာ အဓိကထား၍ တောတန်းတောင်တန်း သုသာန် စသည်တို့၌ ပေါ်ပါးသော အသက်မွေးမှု ဧကစာရီဖြင့် အမြဲနေလေ့ရှိပါသည်။ ကိုယ်၌ အသုံးပြုသော သပိတ်၊ သင်္ကန်း၊ ခေါင်းရိတ်ဓား စသည်မှတစ်ပါး (ဝါ) ဝတ်ရုံသုံးစွဲနေသော ပရိက္ခရာမှ တပါးအခြား အပိုပစ္စည်းဟူ၍ ဘယ်အခါကာလမှ မထားခဲ့။ မရှိခဲ့။ ရလာတိုင်းသော ပစ္စည်းများကို နီးရာကျောင်း၊ နီးရာ သံဃာတော်များသာ လှူခိုင်းလေ့ရှိသည်ဟူ၍ သိရပါသည်။

(ကျမ်းကိုး။ ယင်း စာ ၊ ၂၀၀၊ ပဲခူး ရှေးဟောင်းစာ၌ ဖော်ပြထားပါသည်။)

## ရေဆွမ်းကိုသာ ဘုဉ်းပေးခြင်း

ရဟန္တာအရှင်မြတ်ကြီးသည် ရေဆွမ်းကိုသာ အကြောင်းအားလျော်စွာ ဘုဉ်းပေးခဲ့ကြောင်း လေ့လာတွေ့ရှိရပါသည်။ ထိုစဉ်က ရဟန်း ၉ ဝါ ရှိပြီဖြစ်ပါသည်။

ဘုန်းတော်ကြီးသည် ရဟန်း ၉ ဝါ အရ တောထွက်တော်မူစတွင် အသိမရှိ၊ သတင်းလည်းမကြား၊ ထိုအခါ လာကမို့၊ ညောင်လေးပင်၊ ကျိုက်ပဒိုင်စသော တောတို့၌ နေရန် ကြွလာ၏။ ဤကြွလာနေထိုင်စတွင် တစ်နေ့သောအခါ တောထဲမှထွက်၍ ဆွမ်းခံဝင်ခဲ့ရာ တစ်ဆုပ်မျှသောဆွမ်းကိုသာရ၏။ ထိုနေ့၌ ရရှိသောဆွမ်းကို အကုန် (အားလုံး)ဆွမ်းတော်တင်ပြီး ရေကိုသာသုံး၍ ပီတိဖြင့်သာ မျှတစေလျက် ရဟန်းတရားကို အားထုတ်လေ၏ဟူ၍ သိရပါသည်။

(ကျမ်းကိုး။ ယင်း စာ ၊ ၂၀၁၊ သထုံညောင်လေးပင်ကျောင်း ဦးနန္ဒဝံသထံမှ သိရပါသည်။)

## မည်သည့်အကြောင်းကြောင့်မှ လျောင်းစက်၍မအိပ်

ဆရာတော်ဘုရားကြီးသည် မှီလျက်ထိုင်လျက်သာ အစဉ်အမြဲ သီတင်းသုံးတော်မူကြောင်းကိုလည်း ကြည်ညိုဖွယ်ရာတွေ့ရှိရပါသည်။ ထိုစဉ်က ဆရာတော်ဘုရားကြီးမှာ အာခံတွင်း၌ အနာတစ်ခု ပေါက်နေကြောင်းသိရှိရပါသည်။ သို့သော်လည်း မည်သည့်အခါမျှ ဓုတင်များကို မဖျက်ခဲ့ပေဟု အံ့ဖွယ်ကြည်ညိုရပါသည်။

အဝိုင်းရွာ၊ ကလိရွာတို့၏အကြား သရက်တောကျောင်း၌ နေစဉ်ခံတွင်း (ပါးစပ်)၌ အနာတစ်ခုပေါက်၏။ ထိုအခါ၌ပင် ယာဂုဖြစ်စေ၊ ဆွမ်းဖြစ်စေ လာကပ်လျှင် တစ်ကြိမ်



သာ ဘုဉ်းပေးသည်။ နောက်ထပ် ကပ်လှူသည်ကို အကပ်ခံခြင်းမျှ မပြုပေ။ အခြားအနည်းငယ် မမာသောအခါ၌လည်း ဆွမ်းခံမကြွနိုင်စေကာ အခြားဓမ္မတင်များကို မဖျက် (ဝါ)အပျက်မခံ။ မည်သည့်အခါမျှ လျောင်းစက်၍ အိပ်ခြင်းမပြုဘဲ ထိုင်လျက်မှီလျက်သာ ကျိန်းစက်တော်မူသတတ်ဟူ၍ သိရပါသည်။

(ကျမ်းကိုး။ ယင်း စာ ၊ ၂၀၂ သထုံ ညောင်လေးပင်ကျောင်း ဦးနန္ဒဝံသထံမှ သိရပါသည်။)

## တစ်နေ့ တစ်ကြိမ်သာ ဘုဉ်းပေး

ဆရာတော်ကြီး၏ ကျင့်စဉ်များမှာ တစ်နေ့တစ်ကြိမ်သာ ဘုဉ်းပေးတော်မူခြင်းဖြစ်ပါသည်။ တပည့်များအား မျက်ကွယ်၍သော်လည်းကောင်း၊ မည်သည့်အကြောင်းသော်ကြောင့် လည်းကောင်း၊ တစ်ကြိမ်ထက်ပို၍ ဘုဉ်းပေးတော်မမူခဲ့ပေ။ တရံရောအခါက ထိုအချက်ကို မသိသေးသော အလှူဒါကာတစ်ဦး၏ သဒ္ဓါကိုငဲ့ကွက်၍ အုန်းရေစိမ်းကိုသာ ဘုဉ်းပေးခဲ့ရပါသည်။ ထိုနေ့အဖို့ တစ်ကြိမ် ဥပဒေတော်အရ ထိုနေ့အဖို့ အုန်းရေဖြင့်သာ မျှတခဲ့ရကြောင်း ကြည်ညိုစရာ လေ့လာတွေ့ရှိရပါသည်။

> မော်လမြိုင်နယ်၌နေစဉ် ဒကာတစ်ဦးသည် မိမိခြံမှ အလွန်မျိုးကောင်း အရသာရှိလှသော အုန်းသီးစိမ်းတစ်လုံးကိုဖောက်၍ ဖန်ခွက်တစ်ခုဖြင့်ထည့်ပြီး လာရောက်ဆက်ကပ်၏။ ဘုန်းတော်ကြီးကား 'ဟိုအနားချထားခဲ့'ဟု မိန့်၏။ ယခုဘုဉ်းပေးမှ သင့်မည်အ ကြောင်းလျှောက်၏။ ရှေးနည်းအတူမိန့်ပြန်၏။ ဒကာလည်း ထက်သန်စွာ ထပ်ကာထပ်ကာလျှောက်နေ၏။ ပြောပြောဆိုဆိုနှင့် ကပ်လေ၏။ အကပ်ခံ၍ ဘုဉ်းပေးလေသည်။ ယင်းဒကာသည် မိမိ၏အုန်းရည်ဒါနအတွက် များစွာ ဝမ်းမြောက်သွား၏။ နေလွဲသော အခါဝမ်းနည်းရပြန်၏။ အကြောင်းကား တစ်နေ့လျှင် တစ်ကြိမ်သာ စားသောက်ပြီး နောက်ထပ် မစားမသောက်ကြောင်း သိသွားသော ကြောင့်တည်း။ ဩော် ငါ့အားငဲ့၍ ဘုန်းတော်ကြီးသည် အုန်းစိမ်းရည်ကို ဘုဉ်းပေးလိုက်သည်။ နောက်ထပ် ဘုဉ်းပေးလို့မဖြစ်တော့။ ယနေ့ အုန်းစိမ်းရည်ဖြင့်သာ မျှတနေလိုက်ရပေတော့သည်ဟု သိရပါသည်။
>
> (ကျမ်းကိုး။ ယင်း စာ ၊ ၂၀၃၊ သထုံညောင်လေးပင်ကျောင်း ဦးဝိသုဒ္ဓထံမှ သိရပါသည်။)

## အနေရိုးရိုး အဟောရိုးရိုး အလွန်ရိုး

ဆရာတော်ဘုရားကြီးသည် အပိုမပြော၊ မဟော။ လိုရင်း တိုရှင်းသာ ဟောတတ်၏။ ခပ်တိုတိုသာ ဆုပေးတတ်၏။ ထိုအချက်ကို အောက်တွင်ကြည့်ပါ။

> ဘုန်းတော်ကြီး ရောက်ရာအရပ်တို့၌ အဖူးအမြော်လာကြသူတို့ တစ်သုတ်ပြီးတစ်သုတ် အချိန်ဆွဲ၍ ငါးပါးသီလ ပေးသနားတော်မူပါဟု တောင်းပန်ကုန်၏။ ဩကာသအဆုံးတွင် ခပ်တိုတိုဆုပေး၏။ အဟံ ဘန္တေအဆုံးတွင် နမောတဿ ဆိုကြဟုမိန့်၏။ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိလျှောက်ဆို၊ ပါဏာတိပါတာ လျှောက်ဆိုဟုမိန့်၏။ သီလ ယူပြီးသော အခါ သွားကြသွားကြဟုမိန့်၏။ အကျွမ်းတဝင် ဟောလေ့ပြောလေ့ နေလေ့မရှိဟူ၍ သိရပါသည်။
>
> (ကျမ်းကိုး။ ယင်း စာ ၊ ၂၀၄၊ ပဲခူး မဟာစေတီဆရာတော် ဦးဂန္ဓမာ ထံမှ သိရှိရပါသည်။)



## ကရင်များကို တရားအဆန်းဟောခြင်း

ရေပေါ်လျှင် ရေကိုလှူခိုင်း၏။ ရေမရလျှင် ပန်းပွင့်လှူခိုင်း၏။ ပန်းပွင့်မရလျှင် သစ်ညွန့်ကလေးများလှူခိုင်း၏။ ဖယောင်းတိုင်မဝယ်နိုင်သူများကို ကောက်ရိုးမီးဖြင့်ပူဇော်ခိုင်း၏။ ဆရာတော်ကြီးသည် လွန်ခဲ့သောနှစ်ပေါင်းများစွာကပင် ထိုသို့တရားထူးတရားဆန်းများကို ဟောပြောခဲ့၏။ အံ့သြကြည်ညိုရပါသည်။

၁၉၀၅ အေဒီ ၁၉၀၅၊ (၁၂၆၇ ခုနှစ်၊ ပြာသိုလ) ရွှေကျင်မြို့တောင်ဘက် တံခွန်တိုင်ကျောင်းသို့ သိမ်သမုတ်ရန် ကြွလာစဉ် တောင်ပေါ်မှ ကရင်ငါးယောက် သစ်သီးဝလံများဖြင့် လာရောက်လှူဒါန်းကန်တော့ကြ၏။

'တောင်ပေါ်၌ မင်းတို့ကရင်အမျိုးသားတွေ ချမ်းသာသူပေါသလား။(မပေါပါဘုရား။) ရေမိုးများရောပေါသလား။ (ပေါပါတယ်ဘုရား။) ရေပါလျှင် ဆင်းရဲတဲ့လူတွေ ကုသိုလ်ရအောင် ရေများကို သန့်သန့်ခပ်ပြီး ဘုရားလှူကြ၊ ပန်းပွင့်မရသောအခါ သစ်ညွန့်ကလေးများလှူကြ၊ ဖယောင်းတိုင် မဝယ်နိုင်သောအခါ ကောက်ရိုးမီးထည့်ပြီး ဘုရားကို ပူဇော်ကြ'ဟုမိန့်၏။ ကရင်များမှာ ဤတရားမျိုးကို တစ်ခါမျှမကြားရဘူးဟု အလွန်ဝမ်းမြောက်ကုန်သတတ်ဟူ၍သိရပါသည်။

(ကျမ်းကိုး။ ယင်း စာ ၂၀၆၊ တံခွန်တိုင်ရွာ ဦးဖြိုးသာထံမှ သိရပါသည်။)

## ဘုန်းကြီးစကား အံ့ဖွယ်ကောင်းလောက်အောင် နားထောင်ကြ၏

ဆရာတော်ဘုရားကြီးအား ကရင်လူမျိုးများက အလွန်ကြည်ညိုကြ၏။ ဆရာတော်ဘုရားကြီးစကားကို ကြားနာရပြီးနောက် ငါး ဖား ရှာခြင်း၊ နတ်စားခြင်း၊ သောင်စားခြင်းတို့ကို တစ်ရွာလုံး ရှောင်ကြဉ်ကြကြောင်းသိရပါသည်။ အံ့ဖွယ်ဖြစ်၏။

ဘုန်းတော်ကြီးသည် ခရွဲတောင်ပေါ်၌ နေစဉ်အခိုက် ရွာအရှေ့ဘက်၌ ထိုကျောင်းကား ငှက်ဖျားအလွန်ဖျား၏။ လှေကားအနီး၌လည်း ညဥ့်တိုင်းကျားလာအိပ်၏။ ထိုရွာကား အိမ်ခြေတစ်ဆယ်သာရှိသော ကရင်ရွာကလေးဖြစ်၏။ အခါတစ်ပါး ကြီးကျယ်စွာဖျား၏။

'ဟဲ့ ကြာဖူး၊ ငါသေသွားလျှင် ဤကျောင်းလေးအနီးတွင် မြှုပ်၊ ဘယ်သူ့ကိုမှ မပြောနှင့်' ဟု မိန့်တော်မူ၏။ ကိုကြာဖူးကလည်းဝန်ခံ၏။ နောက် ကျန်းမာလာသောအခါ ခရွဲဒကာများကိုပြောပြ၏။ ခရွဲကျောင်းဒကာ ဦးထွန်းအောင်က - နင် ဒီအတိုင်းလုပ်လျှင် ကရင် သေမယ့်သာပြင်ဟု ကြိမ်းမောင်း၏။ သတ်ချင်သတ်၊ ဘုန်းတော်ကြီးပြောတိုင်းလုပ်မှာပဲဟုပြန်ပြော၏။ ကရင်များသည် ဘုန်းတော်ကြီးစကား အလွန်နားထောင်ကြ၏။ ငါး ဖား ရှာခြင်း၊ သောင်စားခြင်း၊ နတ်စားခြင်းတို့ကို တစ်ရွာလုံး ရှောင်ကြဉ်ကြ၏ ဟူ၍သိရပါသည်။

(ကျမ်းကိုး။ ယင်း စာ ၊ ၂၁၀၊ ခရွဲရွာသား ဦးကောသလ္လထံမှ သိရပါသည်။)

## သံမှိုစွဲသကဲ့သို့ စွဲနေသော ဩဝါဒများ

အသက်ထက် သီလကို စွဲမြဲသင့်ကြောင်း ဆုံးမသောစကားများကို ယနေ့တိုင် မမေ့နိုင်သူများ ရှိကြောင်းသက်သေကို ရှာဖွေတွေ့ရှိရပါသည်။ ထိုစကားကို ၁၉၃၉ ခုနှစ် လောက်ကတည်းက ဟောကြားခဲ့ပါ၏။ အလွန်ထူး၏။ အောက်တွင်ဖတ်ရှုပါ။



၁၉၃၉ ရန်ကုန်မြို့၌ အေဒီ ၁၉၃၉၊ (၁၃၀၁ ခု၊ တန်ဆောင်မုန်းလ)တွင် အသက် ၇၀ ကျော် ဆေးပွဲစားကြီးဆရာချစ် ဤသို့လျှောက်၏။ ဘုန်းတော်ကြီး ကိုယ်တိုင်ဖူး မြင်ဖူး၊ တရားလည်းနာဖူးပါသည်၊ သီလနှင့် သမာဓိဂုဏ်တို့မှာ ဥပမာမရှိအောင် ကြီးပါသည်။ တရားများကို မှတ်သားဖွယ် တိုတိုတုတ်တုတ် ဟောလေ့ရှိပါသည်။

(၁) ပစ္စည်းနှင့် အင်္ဂါခြေလက် တစ်ခုခု အန္တရာယ်တွေ့လျှင် အင်္ဂါခြေလက်ကို အထိမခံနှင့် ပစ္စည်းသာပေးလိုက်ပါ၊ အပျက်ခံပါ။ (၂) အင်္ဂါခြေလက်နှင့် အသက် တစ်ခုခု အန္တရာယ်တွေ့လျှင် အသက်ကို အထိမခံနှင့်၊ အင်္ဂါခြေလက်အပျက်ခံပါ။ (၃) အသက်နှင့် သီလတစ်ခုခု အန္တရာယ်တွေ့လျှင် သီလကို အထိမခံနှင့်၊ အသက်သာ အပျက်ခံပါ'ဟူ၍ ဖြစ်ပါသည်။ ယခုတိုင် ထိပ်သံမှိုဖြင့်စွဲစေထား သကဲ့သို့ အမြဲစွဲနေသော ဩဝါဒဖြစ်ပါသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၁၆၊ ရန်ကုန် ဆရာချစ်ထံမှာ ပြောပါသည်။)

## မီးရထား စီးသင့် မစီးသင့်နှင့် စပ်လျဉ်း၍

ရဟန္တာအရှင်မြတ်ကြီး၏ ကြည်ညိုဖွယ်ရာများအနက် အလွန်အံ့ဖွယ်ကောင်းသော ကြည်ညိုမှု တစ်ခုကို ဂူဖြူဆရာတော်ဘုရားကြီးနှင့်စပ်လျဉ်း၍ ဖတ်ရှုရပါသည်။ ထိုအကြောင်းမှာ မီးရထားစီးခြင်း ကိစ္စ ဖြစ်ပါသည်။ ရှေးအခါက မီးရထား စီးလေ့ မရှိကြသဖြင့် တရံရောအခါက အကြောင်းကြောင်းကြောင့် ဘုန်းတော်ကြီးဦးသီလသည် မီးရထားစီးခဲ့ဖူးပါ၏။ ထိုအချက်နှင့် စပ်လျဉ်း၍ ဘုန်းတော်ကြီးဦးသီလ၏ ပို၍ ကြည်ညိုဖွယ်ကောင်းသော ဖြစ်ရပ်မှန်ကို အောက်တွင်ဖတ်ရှုနိုင်ပါသည်။

(အောက်ပြည်အောက်ရွာ၌ ရဟန္တာဟု နာမည်ကျော်ကြားသော ဘုန်းတော်ကြီး ဦးသီလ ကပင် 'ဂူဖြူဘုန်းတော်ကြီးက တို့များထက်သာတယ်' အမိန့်ရှိဖူးသတတ်။ ဝိနည်းလေး စားမှုအရာတွင် ဆိုလိုဟန်ရှိသည်။ ထိုခေတ်က ဘုန်းတော်ကြီးဦးသီလ၊ အလုံမြို့ ခင်မွန်ဆရာတော်နှင့် ဤဂူဖြူတောရ ဆရာတော်ကြီးသုံးပါးသည် မီးရထားပေါ်စ ဖြစ်၍ မီးရထားကိုပင်စီးတော်မမူကြပေ။ တစ်နေ့သ၌ ဘုန်းတော်ကြီး ပဲခူးသို့ရောက်၍ လိပ်ပြာကန်ကျောင်း၌ သီတင်းသုံးနေစဉ် အထက်မြန်မာပြည် ပခုက္ကူ ရေစကြိုမြို့နယ် ဂူဖြူ တောရမှ ပခန်းဆရာတော်ကြီးသည် ရေလမ်းဖြင့် ရန်ကုန်မှလှည့်၍ ပဲခူးသို့ ဘုန်းတော်ကြီးထံ ရောက်လာ၏။ ဘုန်းတော်ကြီးထက် တစ်ဝါ နှစ်ဝါမျှ ကြီးသည်။ အချင်းချင်းလည်း သတင်းစကားဖြင့် ရှေးကတည်းက အလေးပြုကြသည်။ ပခန်းဆရာ တော်ကြီးက ဘုန်းတော်ကြီးအား -

မီးရထားစီးပြီဟုကြားရသည်၊ ဟုတ်လေသလားဟု အပြစ်တင်စကား မိန့် ကြားတော်မူသတတ်။ အုတ်တွင်း သိမ်သမုတ်သွားရာမှအစ စီးမိပါပြီ၊ ဆုံးမတော်မူပါ၊ နာခံပါမည်ဟု လက်အုပ်ချီလျက် ဝန်ခံတော်မူ၏။ မကျန်းမမာ ဂိလာန ဖြစ်လျှင် အပြစ်မဆိုသာပေဘူး၊ တပည့်တော်ဖြင့် ကျန်းမာသေးရဲ့ဟု မိန့်သတတ်။ (သိမ်သမုတ် သံဃာ့ မကွဲမဖြစ် ကံဆောင်ကိစ္စဖြစ်သည့်အပြင် မကျန်းမမာ အခါနှင့်လည်း ကြုံလာ၍ မကျန်းမမာ ပုဂ္ဂိုလ်များအားပေါင်းချုပ် ရထား၊ လှည်း၊ သန်လျင်း၊ ထမ်းစင်၊ အဝတ်ပုခက်ဟူသော ဝိနည်းပါဠိတော်လာ ယာဉ်ခြောက်မျိုးလုံးစီးအပ်သည်။)

ထိုအခါ ဘုန်းတော်ကြီး ဦးသီလ၏ ဝန်ခံလျက်နေပုံမှာ မြတ်စွာဘုရားအနီး၌ ထုထားသော ရဟန္တာရုပ်တုတော်ကဲ့သို့ ငြိမ်သက်လှသဖြင့် မြင်ရသူတို့မှာ မျက်တောင်



မျှ မခတ်နိုင်ကြကုန်။ ဆရာတော်ကြီးနှစ်ပါးစလုံးကို အထူးကြည်ညိုအံ့ဩကြသည်မှာ ပွဲတင်ထပ်မျှဖြစ်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၁၇၊ ဓမ္မာစရိယ ဦးဌေးလှိုင်က ရေးသားခဲ့ပါသည် ထိုအချက်ကို စစ်ကိုင်းတောင် ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ်၏ ရွှေကျင်နိကာယ သာသနာဝင် ၁၉၈၈ ၊ ဒုတိယအကြိမ် ပုံနှိပ်ခြင်း စာ - ၃၂၇-၃၂၈တို့တွင်လည်း ဖတ်ရှု နိုင်ပါသည်။ ကြည့်ကြပါဦး။)

## ငါးပါးသီလပေးပြီး နှင်လေ့ရှိခြင်း

ဘုန်းတော်ကြီး ဦးသီလသည် စကားတိုတိုနှင့် ဟောတတ်၏။ ဆုတိုတိုပေးတတ်၏။ သီလပေး၏။ ပြီးလျှင်သွားကြတော့ဟု နှင်လေ့ရှိ၏။ ထိုထူးခြားချက်ကိုသိရပါသည်။

ဘုန်းတော်ကြီးမှာ ဆွမ်းမရသောအခါ ရေဖြင့်သာ ရောင့်ရဲနေ၏။ ဆွမ်းကိုလည်း တစ်နေရာတည်းတစ်ခွက်တည်း(ကောသနိက်မှတင်အရ)ဘုဉ်းပေး၏။ သွားနာတတ်၍ သက်သတ်လွတ် အမြဲဘုဉ်းပေး၏။ မြင်းသရိုက်နှင့် သလိပ်ပန်းနာရှိ၍ ထမင်းရည်သင့်မြတ်သည်ဆိုသဖြင့် ကပ္ပိယများက ရှာ၍ကပ်ရသည်။ သိန္ဓောဆား အနည်းငယ်ထည့်၍လည်းကပ်ကြ၏။ ရဟန်းငယ်များအား စာသင်ရန်နှင့် ရဟန်းကြီးများအား တောရဝင်ရန် တိုက်တွန်းလေ့ရှိသည်။ ဆုပေးကို တိုတိုပေး၍ 'နမောတဿဆို' စသည်ဖြင့် အဆိုခိုင်း၊ ငါးပါးသီလပေးသည်။ ပြီးလျှင် 'ကဲ သွားကြ သွားကြ' ဟု နှင်လေ့ ရှိသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၁၈၊ ဓမ္မာစရိယ ဦးဌေးလှိုင်က မှတ်တမ်း တင်ခဲ့ပါသည်။)

## လူစကားနားလည်သော ပုရွက်ဆိတ် ခါချဉ် ပျား စသည်အကြောင်း

ပုရွက်ဆိတ်များကပင်လျှင် ဘုန်းတော်ကြီး ဦးသီလ၏စကားကို နားထောင်၏ဟု အံ့ဩဖွယ်ရာ သိရှိရပါသည်။ ၎င်းအပြင် ခြင်များသည်လည်းကောင်း၊ ပျားများသည်လည်းကောင်း၊ ဘုန်းတော်ကြီး ဦးသီလ၏စကားကို နားထောင်ကြ၏ဟု သိမှီသူများက အံ့ဩစွာပြောလေ့ရှိကြောင်း ဖြစ်ရပ်မှန်လေ့လာတွေ့ရှိရပါသည်။

ရွှေကျင်မြို့ တောရကျောင်းသည် မှက် ခြင် ပုရွက်ဆိတ် ကရင်နီများအလွန်ပေါ၏။ ဘုန်းတော်ကြီး တစ်နာရီ နှစ်နာရီ စသည်ကြာအောင်ထိုင်၍ ဝတ်ပြုခြင်း၊ တရားရှုခြင်း ပြုသော်လည်း တစ်ချက်မျှ မလှုပ်သဖြင့် ညဉ့်အိပ် ဥပုသ်သည်များက ခြင်မကိုက်ဟုလည်းကောင်း၊ ကိုက်မှာပါပဲ၊ သမာဓိကြောင့် နေမှာပါဟုလည်းကောင်း၊ ဥပုသ်သည်များမှာ မိမိကိုယ်ကို ခြင်များကိုတဘက်ဖြင့်ယမ်းလျက် ပြောဆိုနေခဲ့ကြဖူး၏။ အလားတူပင် ဖျာပုံနယ်၌ ကျောင်းတိုက်တည်၍ သိမ်သမုတ်ရန်အတွက် ကြွရဖူးရာ သိမ်သမုတ်ပြီးသောအခါ ပုရွက်ဆိတ် ခါချဉ် ကရင်နီများ အလွန်ပေါသော မြေကွက်ဖြစ်လျက် ထိုတိရစ္ဆာန်များ အလိုအလျောက် ထွက်ခွာသွားကြသည်ဟု တအံ့တဩ ပြောစမှတ်ပြုကြ၏။ ကျိုက်ထိုဆိပ်ဖူးတောင် တောကျောင်းတွင် ပျားအုံကြီးများ အုံလုပ်နေရာမှ တရှုန်းရှုန်းပျံဝဲလှုပ်ရှားနေကြသဖြင့် ဒကာ ဒကာမများ မသွားဝံ့ရှိနေကြ၏။ အဖူးမြော်လာသူတို့အား သင်တို့မနှောင့်ယှက်ကောင်းဟု ဆိုလိုက်လျှင်ပင် အအုံသို့သွားရောက်ငြိမ်နေကြသည်ဟုပြောဆိုကြ၏။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၂၂)

## ကေလာသတောင်ခြေက အရက်သမားတစ်ယောက်အကြောင်း အံ့ဖွယ်



ဘုန်းတော်ကြီး ဦးသီလ၏ သီလသမာဓိပညာတော်ကို ပေါ်လွင်စေသော ဖြစ်ရပ်မှန်တစ်ခု ကေလာသတောင်ခြေရှိ တိုက်ကုလားရွာ ဝင်းကရွာစသော ရွာများတွင်ဖြစ်ခဲ့ဖူးလေသည်။ ယခု အဖြစ်အပျက်မှာ ကေလာသတောင်ခြေရှိ တိုက်ကုလားရွာဟု ခေါ်ကြသော ရှေးဟောင်းသုဝဏ္ဏဘူမိ မြို့ဟောင်းတည်ရာက ဖြစ်ရပ်မှန်ဖြစ်ပါသည်။

> ကေလာသတောင် တိုက်ကုလား တောရ၌ နေစဉ်က ရွာနေဘုန်းတော်ကြီးအချို့သည် ဘုန်းတော်ကြီးဦးသီလအပေါ် မနာလိုဝန်တိုစိတ်ဖြင့် အရက်သမားတစ်ဦးအား ပိုက်ဆံပေး၍ ဘုန်းတော်ကြီးကိုရန်ပြုစေကြ၏။ ထိုအရက်သမားသည် ဘုန်းတော်ကြီး ဆွမ်းခံကြွရာလမ်းမှကြို၍ ဘုန်းတော်ကြီးအား ခေါင်းနှင့်တအားဝင်တိုက်ပြီးဝှေ့လေ၏။ ဘုန်းတော်ကြီး၏ မေတ္တာ၊ သီလ စသည်ကြောင့် သူ၏ခေါင်းဒဏ်ကို မြေကြီးက ကိုယ်စားခံယူလိုက်၏။ အရက်သမားလည်း အရှိန်ပြင်းစွာ ထိုနေရာ၌ပင် လဲကျသွား၏။
>
> (ကျမ်းကိုး၊ ယင်း စာ ၊ ၂၂၄)

## မူလ ပထမ ရွှေကျင်ဆရာတော် အရှင်ဇာဂရနှင့် ရဟန္တာဦးသီလအကြောင်း

ဘုန်းတော်ကြီး ဦးသီလနှင့် ရွှေကျင်ဆရာတော်ဘုရားကြီးအကြောင်းကို ဖတ်ရှုရသည်မှာ ကြည်ညိုဖွယ်ရာဖြစ်ပါသည်။ မြန်မာနိုင်ငံအောက်ပိုင်း ရွှေကျင်ဂိုဏ်းကြီး ပေါ်ထွန်းလာပုံနှင့်စပ်လျဉ်း၍ ရွှေကျင်ဆရာတော်ဘုရားကြီးအကြောင်းကို စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော်က မှတ်တမ်း တင်ခဲ့သည်ကိုလည်းဖတ်ရှုဖူးပါသည်။ ထိုအချက်သည် ဘုန်းတော်ကြီးဦးသီလ၏ မဟာရုပ်ပုံလွှာတွင် အရေးတကြီး ပါဝင်နေသဖြင့် ကြခတ်ဝိုင်းဆရာတော်ကလည်း မှတ်တမ်းတင်ခဲ့ပါသည်။ အောက်တွင်ဖတ်ကြည့်ပါ။

> ရွှေကျင်ဂိုဏ်းကြီးကို စတင်တည်ထောင်သော ရွှေကျင်ဆရာတော် အရှင်ဇာဂရ မထေရ်မြတ်သည် မြန်မာနိုင်ငံ အထက်ပိုင်း ရွှေဘိုခရိုင်၊ ရွှေဘိုမြို့နယ်၊ ရွှေဘိုတောင်လက်၊ ရွှေဘိုမြို့နှင့် ၁၀ မိုင်ခန့်အကွာတွင် ရွှေကျင်အမည်ရှိသော ရွာတစ်ရွာရှိ၏။ ထိုရွှေကျင်ရွာသည် ယခုထိ ထင်ရှားရှိ၏။ ယင်းရွှေကျင်ရွာ၌ ဖွားမြင်တော်မူသော ဆရာတော်ဖြစ်၍ ရွှေကျင်ဆရာတော်ဟုတွင်သည်။

၁၈၂၂ ထိုရွှေကျင်ဆရာတော် အလောင်းလျာကို အေဒီ ၁၈၂၂၊ (၁၁၈၄ ခုနှစ်၊ ဝါဆိုလဆန်း ၁၃ ရက်) အင်္ဂါနေ့ နံနက် ၃ ချက်တီးအချိန် အဘ ဦးမောင်၊ အမိ ဒေါ်မိတို့မှ ဖွားမြင်သည်။ ငယ်မည် မောင်သန့်ဖြစ်သည်။ ဘုန်းတော်ကြီးထက် ၁၀ နှစ်နှင့် ၅ လ သက်တော်ကြီး၏ဟုသိရပါသည်။

> (ကျမ်းကိုး၊ ယင်း စာ ၊ ၂၃၂ ရွှေကျင်ဆရာတော် ဘုရားတော်ဘုရားကြီး၏ အတ္ထုပ္ပတ္တိ အချုပ် စာ - ၁၅၂ - ၁၅၃၊ ထိုအချက်ကို စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ်၏ ရွှေကျင်နိကာယ သာသနာဝင် ၁၉၈၈၊ ဒုတိယအကြိမ် ပုံနှိပ်ခြင်း တို့တွင်လည်း ဖတ်ရှုနိုင်ပါသည်။ ကြည့်ကြပါဦး။)

## ရဟန္တာဟုကျော်ကြားသော မူလတောရဆရာတော်ဦးသီလအကြောင်း

ဘုန်းတော်ကြီးဦးသီလ၏ မဟာထေရုပ္ပတ္တိကို ရွှေကျင်နိကာယ သာသနာဝင်တွင် ဖော်ပြထား



သည်ကိုဖတ်ရှုရပါသည်။ ယင်းကျမ်းစာ စာ - ၃၂၉ တွင် ဘုန်းတော်ကြီး ဦးသီလဟုဖော်ပြထား၏။ စာ - ၁၀၃ တွင်ကား နောင်အခါ ရဟန္တာဟုကျော်ကြားအပ်သော ဘုန်းတော်ကြီးဦးသီလဟု ဖော်ပြထားကြောင်းဖတ်ရှုရပါသည်။ ကြခတ်ဝိုင်းဆရာတော်ကြီးသည်လည်း အောက်ပါအတိုင်း မှတ်တမ်းတင်ခဲ့ပါသည်။

၁၈၃၂ မူလ တောရဆရာတော် ဘုန်းတော်ကြီး ဦးသီလကို မြန်မာပြည်အောက်ပိုင်း ပဲခူးတိုင်း၊ ပဲခူးမြို့၏ မြောက်ဘက် ၃ မိုင် အကွာ၊ အထက် ဇိုင်းဂနိုင်းကြီးရွာ၌ အေဒီ ၁၈၃၂၊ (၁၁၉၄ ခုနှစ်၊ နတ်တော် လဆန်း ၈ ရက်) သောကြာနေ့ နံနက် ၈ နာရီအချိန်တွင် ဖွားမြင်သည်။ အဘ ဦးထွန်းအောင်၊ အမိ ဒေါ်ချို ဖြစ်သည်။ ကုန်သည်လုပ်ငန်းဖြင့် အသက်မွေးသည်။ မောင်နှမအရင်း ၅ ယောက်ရှိသည်။ ၅ ယောက်စလုံးပင် အထက်ဇိုင်းဂနိုင်းကြီးရွာမှာပင် ဖွားမြင်ကြသည်။ နောင်မှ ဘုရားကလေးသို့ အချို့ပြောင်းရွှေ့နေထိုင်ကြသည်။ ဘုန်းတော်ကြီး အလောင်းလျာသူငယ်ကို ၁၀ နှစ်သားအရွယ်မှာ အထက်ဇိုင်းဂနိုင်းကြီးအနီး ကော့ပြင်းရွာ ဘုန်းကြီးကျောင်းသို့ အပ်နှံပညာသင်စေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ အရညဝါသီ ရွှေကျင်နိကာယသမိုင်း၆ တွင် မှတ်တမ်းရှိပါသည်။ ထိုအချက်ကို စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ်၏ ရွှေကျင်နိကာယသာသနာဝင် ၁၉၈၈၊ ဒုတိယအကြိမ်ပုံနှိပ်ခြင်း စာ ၁၀၃-၁၀၆ တို့တွင်လည်း ဖတ်ရှုနိုင်ပါသည်။ ကြည့်ကြပါဦး)

## အရညဝါသီ ရွှေကျင်

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ရဟန္တာအရှင်မြတ်ကြီးဦးသီလတို့၏ ဆက်နွယ်မှုမှာ မှတ်သားဖွယ်ရာဖြစ်၏။ ကြည်ညိုဖွယ်လည်းဖြစ်၏။ ကြခတ်ဝိုင်း ဆရာတော်ဘုရားကြီး ဦးဇောတိပါလက ဤသို့ မှတ်တမ်းတင်ခဲ့ပါသည်။

၁၈၆၃ မန္တလေးမြို့ ရွှေကျင်ဆရာတော်ဘုရားကြီး အရှင်ဇာဂရသည် အေဒီ ၁၈၆၃၊ (၁၂၂၅ ခုနှစ်)တွင် နောက်ပါသံဃာတော်များနှင့် ပဲခူးမြို့သို့ရောက်တော်မူလာ၏။ အထက်ပိုင်းမှာ ရွှေကျင်ဂိုဏ်းထင်ရှားနေပြီး အောက်ပိုင်းမှာ တောရဂိုဏ်းထင်ရှားနေပြီးဖြစ်၏။ ထိုအခါ ပဲခူးတောရဘုန်းတော်ကြီး ဦးသီလစသော သံဃာတော်များနှင့် တွေ့ဆုံနှီးနှော၍ ပိုမိုအစေ့အစပ်ဖြစ်လေ၏။ ရည်ရွယ်ချက် ဆန္ဒ၊ စည်းမျဉ်းဥပဒေချင်း တူမျှကြ၏။ ဝိနည်းကို ပဓာနထား၍ သီးသန့်ခြင်း၊ ဂိုဏ်းတစ်ပါးနှင့် အာမိသ သမ္ဘောဂ မရှိခြင်း စသောအားဖြင့် အယူသီလတူမျှသောကြောင့် ဂင်္ဂါရေနှင့် ယမုံနာရေတို့သည် ဘယ်သို့မျှမကွဲမပြား တစ်သားတည်းရောသကဲ့သို့ သဘောတူကြေညာရောနှော ဆက်ဆံမိကြလေ၏ဟု အရညဝါသီ ရွှေကျင်နိကာယသမိုင်း မှတ်တမ်းရှိပါသည်။

(ကျမ်းကိုး၊ ထိုအချက်ကို စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ်၏ ရွှေကျင်နိကာယ သာသနာဝင် ၁၉၈၈၊ ဒုတိယအကြိမ် ပုံနှိပ်ခြင်း စာ - ၁၀၃ တွင်လည်း ဖတ်ရှု နိုင်ပါသည်။ ကြည့်ကြပါဦး။)

## ငှက်ပျောသီးနှင့် ထန်းလျက်အကြောင်း

ဘုန်းတော်ကြီးဦးသီလ၏ မိခင်ကြီးဖြစ်သူ ဒေါ်ချိုသည် ရဟန္တာလောင်းလျာအား ကိုယ်ဝန်



လွယ်ထားစဉ်ကာလက ချင်ခြင်းတပ်ပုံများကို ရှားရှားပါးပါး ဖတ်ရှုမှတ်သားရပါသည်။ အောက်တွင် ကြည့်ပါ။

> ဒေါ်လှသင်မှာ ငယ်ငယ်ကပင် အဘွားဖြစ်သော ဒေါ်လှသူ (ဒေါ်အို)နှင့် အတူနေရ၏။ ဖွားလှသူသည် အစ်ကို ဘုန်းတော်ကြီး၏ အကြောင်းကို မကြာခဏ ပြောပြကြောင်း သိရ၏။ ဘုန်းတော်ကြီးကို ကိုယ်ဝန်ရှိသောအခါ မိခင်ကြီး ဒေါ်ချို၌ ငှက်ပျောသီးနှင့် ထန်းလျက်ရှိသော စားလိုစိတ် ရှိ၏။ ငှက်ပျောသီးနှင့် ထန်းလျက်ကိုသာ စားလျက် ကိုယ်ဝန်ကိုစောင့်ရှောက်၏။ ဘုန်းတော်ကြီးကား ကလေးဘဝကပင် တစ်ဖက်သားအား အမြဲငဲ့ညာ၏။ အကုသိုလ်ကို များစွာပင် ကြောက်၏ဟုသိရပါသည်။
>
> (ကျွမ်းကိုး၊ ယင်းစာ - ၂၄၈၊ ဒေါ်လှသင် ကျောက်ဆည် အသက် ၆၈ ပြောကြားပါသည်။)

## မသူဇာ ငိုလျက်ပြန်လာရကြောင်း

ဘုန်းတော်ကြီး ဦးသီလသည် မိမိ၏နှမအကြီးဖြစ်သူ မသူဇာအား နင်တို့ငါ့ဆီကို မလာကြနှင့်ဟု ဆိုပုံကို ဒေါ်လှသင်ကိုယ်တိုင် ပြန်ပြောချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

> ဘုန်းတော်ကြီးမှာလည်း ငှက်ပျောသီးနှင့်ထန်းလျက်ကို အထူးနှစ်သက်၏။ နှမအကြီး မသူဇာမှာ ဘုန်းတော်ကြီးတောထွက်သွားခါစက တောအနှံ့လိုက်ရှာ၍ ငှက်ပျောသီး နှင့်ထန်းလျက်လိုက်ပို့လေ့ရှိ၏။ တစ်နေ့သ၌ နှမအကြီးမသူဇာ ငှက်ပျောသီးနှင့် ထန်းလျက်သွားပို့ရာ 'နင်တို့ နောက် ငါ့ဆီလိုက်မလာကြနှင့်' ဟုဆို၏။ မသူဇာမှာ ငိုလျက်ပြန်ခဲ့ရဖူး၏ဟုသိရပါသည်။
>
> (ကျွမ်းကိုး၊ ယင်းစာ - ၂၄၉၊ ဒေါ်လှသင် ကျောက်ဆည် အသက် ၆၈ ပြောကြားပါသည်။)

## မြွေနှင့် စကားပြောနေသော ဘုန်းတော်ကြီး ဦးသီလ

**ဘုန်းတော်ကြီး ဦးသီလသည် မြွေနှင့်စကားပြောသူဟု ထူးဆန်းစွာမှတ်သားရပါသည်။ ရှေ့မှာရှိသော မြွေကြီးတစ်ကောင်ကို ဘုန်းတော်ကြီးက ဒကာရှေ့ရန်သူများလွတ်ရာသွားတော့ဟု မိန့်တော်မူသဖြင့် မြွေကြီးမှာ စကားကိုနားလည်၍ ထွက်သွားသည်ကို ကိုယ်တွေ့ပြန်ပြောသူရှိ၍ တင်ပြပါသည်။**

> တစ်နေ့သောအခါ ဘုန်းတော်ကြီးသည် ပဲခူးမြို့နယ် ဘုရားကလေး ဥက္ကံရွာ ကုသိနာရုံ ဘုရားဝင်းအတွင်း၌နေ၏။ မလှသူသည် ဘုန်းတော်ကြီးကြွရောက်နေကြောင်း သတင်း ကြား၍ အသင့်ရှိနေသော ဆွမ်း/ဆွမ်းဟင်း အသက်လွတ် ပစ္စည်းများကိုသွားပို့၏။ ဘုန်းတော်ကြီးမှာ တစ်ပါးတည်း စကားပြောနေကြောင်းသိရ၏။ မလှသူမှာ ချောင်းမြောင်းကြည့်၏။ ဘုန်းတော်ကြီး၏ရှေ့၌ မြွေကြီးတစ်ကောင် စင်းနေသည်ကို တွေ့ရ၏။ 'ဒကာရှေ့ ရန်သူများ လွတ်ရာသွားတော့'ဟု မိန့်တော်မူ၏။ ထိုအခါ မြွေကြီးမှာ လှည့်ပြီးထွက်သွားသည်ကို ကိုယ်တိုင်မြင်ရကြောင်း ပြောပြ၏ဟုသိရ ပါသည်။
>
> (ကျွမ်းကိုး၊ ယင်းစာ - ၂၄၉၊ ဒေါ်လှသင် ကျောက်ဆည် အသက် ၆၈ ပြောကြားပါသည်။)



## နူနာကြောင့် ကိုယ်ပျက်နေသော တရုတ်တစ်ဦး ရောဂါပျောက်ကင်းကြောင်း အံ့ဖွယ်

ဘုန်းတော်ကြီးဦးသီလကို အလိုလိုကြည်ညိုလာသော တရုတ်လူမျိုးတစ်ဦးသည် သတင်းစကားကြားရုံမျှဖြင့် ကြည်ညိုစိတ်ဝင်၍ လာရောက်ကန်တော့သောအခါ မိမိ၏ဝေဒနာဖြစ်သော ကိုယ်ပျက်ရောဂါနူနာမှာ တစ်မဟုတ်ချင်းပျောက်ကင်းသွားပုံကို မှတ်တမ်းတွေ့ရှိရပါသည်။ အံ့ဖွယ်ဖြစ်ပါသည်။

ဇလွန်မြို့၌ ဘုန်းတော်ကြီး ပရိနိဗ္ဗာန်ပြုသောအခါ ဈာပနပွဲမှာ ပထမတွင် အဝေးမှလည်း မသိကြသေး၍ စည်စည်ကားကားမရှိ။ ထူးခြားသော အံ့သြဖွယ်တို့မှာလည်း များစွာမထင်ရှားသေး။ တစ်နေ့သ၌ ကိုယ်ပျက်နေသူ တရုတ်လူမျိုးတစ်ဦးသည် ဘုန်းတော်ကြီး အလောင်းတော်အား ကန်တော့လိုသော စေတနာများစွာဖြစ်လေ၏။ ကန်တော့ရလျှင် မိမိ၏အလွန် စိတ်ဆင်းရဲနေသော ကိုယ်ပျက်ရောဂါ ပျောက်ကင်းသွားလိမ့်မည်ဟုလည်း ထင်မှတ်စိတ်စော၍နေ၏။ တစ်နေ့ထက်တစ်နေ့ ထူးထူးခြားခြား သက်သာ ရှင်းရှင်းပျောက်ကင်းသွား၏။ ထိုမှအစ တစ်ယောက်စကား တစ်ယောက်ကြားကာ တစ်နေ့တခြားစည်ကားလာတော့၏။ ထူးခြားသော အံ့သြဖွယ်တို့မှာလည်း တစ်နေ့တခြားများပြားလာ၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းစာ - ၂၅၀၊ ဒေါ်လှသင် ကျောက်ဆည် အသက် ၆၈ ပြောကြားပါသည်။)

## ပဲခူးကြခတ်ဝိုင်း ယခင်နှင့် ယခုအကြောင်း

ဘုန်းတော်ကြီး ဦးသီလလက်ထက်က ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတော်ကြီးနှင့် ယခုခေတ်ကျောင်းတော်ကြီးတို့ ကွာခြားပုံကို လေ့လာမှတ်သားရပါသည်။

၁၈၆၄ ဘုန်းတော်ကြီး စတင်တည်ထောင်သော အေဒီ ၁၈၆၄၊ (၁၂၂၆ ခုနှစ်) တွင် ဘုန်းတော်ကြီး ဇေကစာရီ တစ်ပါးတည်း ရေကန်ကလေးကို အမှီပြု၍ ကြခတ်ဝါးတော ကြခတ်ဝါးရုံ ကလေးများ၏အောက်၌ သားရေနွယ်ခင်း သပိတ်ကိုအားကိုးလျက် မိမိ၏ ကိုယ်ကျင့်သီလကို အဖော်လုပ်ပြီး နောင်ပရိယတ္တိ စာသင်တိုက်ကြီး ဖြစ်လာစေရန် ကျောင်းတည်ခဲ့၏။ ( ကျောင်းကန် ဟူသော စကား၌) ကန်က ရှေးက ရှိပြီး ဖြစ်နေ၏။ ဘုန်းတော်ကြီး၏ သီလတန်ခိုးကြောင့် ယနေ့ သံဃာတော်လေးရာ (၄၀၀) ကျော်ရှိ ပရိယတ္တိ စာသင်တိုက်ကြီး ဖြစ်လာ၏။ အဆောက်အအုံ သံဃာနေကျောင်း နှစ်ဆယ် (၂၀) ကျော်ရှိ၏။ နတ်လမ်း အခန်းပေါင်း (၂၆၀)ကျော် ရှိ၏။ အရာမ်လေးဘက် ကြခတ်ဝိုင်းကို အုတ်တံတိုင်း ဝိုင်းလိုက်၏။ ဝစ္စကုဋီ၊ ရေမီး အားလုံးပြည့်စုံ၏ ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၂၅၁၊ ဒေါ်လှသင် ကျောက်ဆည် အသက် ၆၈ ပြောကြားပါသည်။)

## စစ်တောင်းကမ်းနပ္ပူးက တရုတ်လှကျေးရွာ၏ မှတ်တမ်းဝင် ဝါးကျောင်းကလေး

သစ်ပင်ရင်း၌ သီတင်းသုံးတော်မူသော ဘုန်းတော်ကြီး ဦးသီလကို စစ်တောင်းမြစ်ကမ်းနဖူးတွင် ရှိသော တရုတ်လှကျေးရွာ ရွာသူရွာသားများက ဆွမ်းခံကြွသော ဘုန်းတော်ကြီးကို ဖူးတွေ့ ကြည်ညိုကြသဖြင့် ဝါးကျောင်းကလေးတစ်ကျောင်း ဆောက်လုပ်လှူဒါန်းကြကြောင်း တရုတ်လှကျေးရွာ၏ မှတ်တမ်းတွင်တွေ့ရပါသည်။ အောက်တွင်ဖတ်ကြည့်ပါ။



၁၈၈၇ အေဒီ ၁၈၈၇၊ (၁၂၄၉ ခုနှစ်)တွင် ဘုန်းတော်ကြီးသည် မော်လမြိုင်နယ်သို့ အစဆုံး ကြွတော်မူ၏။ ဘားအံနယ်အဝင် တရုတ်လှရွာမြောက်ဘက် သုသာန်အနီး တောအုပ်၌ နေ၏။ ထိုတောအုပ်မှ တရုတ်လှရွာသို့ ဆွမ်းခံဝင်၏။ ရွာသူရွာသားတို့သည် ဤသို့ ငြိမ်သက်သော ဣန္ဒြေဖြင့် ဆွမ်းခံဝင်သော ပုဂ္ဂိုလ်ကို တစ်သက်မှာ ဒီတစ်ခါသာ မြင်ကြရသည်ဟု အုတ်အုတ်ကျက်ကျက် ဆွမ်းစသည်လောင်းလှူကြ၏။ အသက်တော် ငါးဆယ်ကျော် ကြည်ညိုစဖွယ် အလွန်လည်းသပ္ပာယ်၏။ ထိုတောအုပ်၌ သီတင်းသုံးသောကျောင်းတို့မှာ - (၁) လွင်ပြင်၌ နေရသော အဗ္ဘောကာသ (ဓူတင်)ကျောင်း၊ (၂) သစ်ပင်ရင်း၌ နေရသော ရုက္ခမူလ (ဓူတင်) ကျောင်းပေါင်းနှစ်ခုဖြစ်၍ တစ်လှည့်စီ သီတင်းသုံးသည်ကို ရွာသူရွာသားတို့သည် အလွန်အံ့ဩခြင်း၊ ကြည်ညိုခြင်းဖြစ်၍ ငါတို့မှာ အရတော်လေစွဟု မိုးလုံလေလုံ စကြံလေးနှင့်တကွ ဝါးကျောင်းလေး တစ်ဆောင်ဆောက်လုပ်လှူဒါန်းကုန်၏။ ထိုဝါးကျောင်းလေး၌ ဝါကပ်တော်မူ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းစာ -၂၅၇ မော်လမြိုင် မဟာမြိုင်စာချ ဦးရေဝတ ပြောကြားချက်)

## ဘုန်းတော်ကြီး တရားအားထုတ်ခဲ့သော အောင်မြေနေရာများမှတ်သားဖွယ်

ဘုန်းတော်ကြီးဦးသီလ တရားအားထုတ်တော်မူခဲ့သော နေရာဌာနများမှာ တစ်တောဝင် တစ်တောင်တက်ဖြစ်သဖြင့် ကျယ်ဝန်းလှပါသည်။ သို့သော်လည်း မှတ်တမ်းအရ အချို့အဝက်ကိုသာ သိခွင့်ရပါသည်။ အောက်တွင်ကြည့်ပါ။

အကောင်းဆုံး ပန်းရနံ့တို့သည် လေအောက်သာ မွှေး၍ လေအထက် ဆန်တက် မမွှေးနိုင်။ ဘုန်းတော်ကြီး၏ သီလစသော ဂုဏ်တော်ရနံ့တို့မှာကား လေအောက် လေထက်မရွေး မော်လမြိုင်တစ်နယ်လုံးမွှေးကုန်၏။ ဝါကျွတ်သောအခါ အရပ်ရပ်မှ လာပင့်ကြ၏။ တစ်နယ်လုံးအနှံ့ ရောက်တော်မူ၏။ သီတင်းသုံးဖူးသော အရပ်တို့မှာ ဘီလူးကျွန်းတွင် (က) ကျိုက်ကွဲတောင်၊ (ခ) ကျိုက်သုတ်၊ (ဂ) ကွမ်တိုင်းတောရ၊ (ဃ) သက်ငယ်တောင်၊ (င) မြတောင်၊ (စ) ကျိုက်ဗိုး (ဆ) နတ်မှော်နှင့် မြို့ဘက်တွင် (ဇ) ငှက်ပျောတောကျောင်း၊ (ဈ) တောင်ဝိုင်းကြီးစသည်တို့ဖြစ်၍ အချို့နေရာ၌ တစ်ဝါ၊ အချို့နေရာ၌ နှစ်ဝါ၊ ကျိုက်ကွဲတောင်၌ကား ဥတုကောင်းလှသည်ဟု သုံးဝါတိုင် နေတော်မူ၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၅၈၊ မော်လမြိုင်၊ မဟာမြိုင် စာချ ဦးရေဝတ ထံမှ သိရပါသည်။)

## သထုံမြို့ တောင်ဝိုင်းကြီး တောရအကြောင်း

ဘုန်းတော်ကြီး ဦးသီလ သက်တော်ထင်ရှားရှိစဉ်ကပင် သထုံရောက်စက ဆွမ်း ၃ ရက်မရဟု ပြောစမှတ်ပြုကြောင်းကြားသိရပါသည်။ မှတ်တမ်းတစ်ခုတွင် သေချာစွာတွေ့ရှိရပါသည်။

တစ်ချိန်က ( ဘုန်းတော်ကြီး ဦးသီလ သထုံရောက်စ ဆွမ်း၃ ရက်မရ ) ဟု ပြောစမှတ် ဖြစ်လောက်အောင် 'ဒကာတို့၊ ချေသတ္တဝါစသော တောကောင်များ မြို့တွင်း ရွာတွင်းဝင်လျှင် မြို့ရွာပျက်တတ်သည် မဟုတ်လော၊ ယခု ဘုန်းတော်ကြီး ဦးသီလ ဟူသော တောကျောင်းဘုန်းကြီးသည် ငါတို့မြို့တွင်းသို့ ဝင်လာတော့မည်၊ ဝင်လာလျှင် ဆွမ်းမလောင်းကြနှင့်' အထိ ငြူစူမှုကိုခံခဲ့ရ၏။ နောင်ကြည်ညိုသူ ဒကာများ



ပေါ်လာ၏။ ယင်း သထုံရောက်စ ဦးဝိုင်း၏ ခြံနေရာသည် ယခုအခါ တောင်ဝိုင်းကြီး တောရဟု အမည်တွင်လျက်ရှိ၏။

၁၈၉၈ ထိုတောရကို အေဒီ ၁၈၉၈၊ (၁၂၆၀ ပြည့်နှစ်)တွင် သထုံမြို့ ဦးဘလိပ်နှင့် သမီး မဖွားစုံတို့က ကျောင်းတစ်ဆောင်ဆောက်ပြီး စာချမဟ္ဂကထိက ဦးဇာဏုတ္တရကို စာချ အုပ်ချုပ်စေ၏။ အလွန်ဆိတ်ငြိမ် သာယာလှ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၆၄၊ သထုံမြို့ ဒေါ်ဖွားစုံ ထံမှ သိရပါသည်)

## ဘုန်းတော်ကြီးနှင့် ရွှေကျင်ဆရာတော် ရင်းနှီးခြင်းအစ

ဘုန်းတော်ကြီး ဦးသီလနှင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဆက်နွယ်ပုံသည်လည်းကောင်း၊ မြန်မာနိုင်ငံတော်အထက်ပိုင်း ရွှေကျင်ဂိုဏ်းနှင့် မြန်မာနိုင်ငံတော်အောက်ပိုင်း ရွှေကျင်ဂိုဏ်းတို့ ပေါ်ပေါက်ထွန်းကားလာပုံကို ရွှေကျင်နိကာယ စာ ၁၀၁ - ၁၀၃ တို့တွင် ဖတ်ရှုရပါသည်။ ပဲခူးကြခတ်ဝိုင်းဆရာတော် ဘုရားကြီးကလည်း မိမိ၏မှတ်တမ်းတွင် အောက်ပါအတိုင်းဖော်ပြခဲ့ပါသည်။ နောက်လူတို့ မှတ်စဖွယ်ဖြစ်ပါ၏။

၁၈၉၃ အေဒီ ၁၈၉၃၊ (၁၂၅၅ ခုနှစ်)တွင် ဘုန်းတော်ကြီးသည် ခရဲတောင်အရှေ့ဘက် အခိုက်ရွာတောရ၌ဝါကပ်၏။ သီတင်းကျွတ်သောအခါ မန္တလေးမြို့ ရွှေကျင်ဆရာတော်ကြီးသည် အောက်မြန်မာပြည် ရာမညတိုင်းတစ်လျှောက် စုန်ဆင်း၍ တရားဟော ကြွလာ၏။ ပဲခူးသို့ရောက်သောအခါ ရွှေမော်ဓောစေတီတော်ကြီး အရှေ့ဘက် ဝါးရုံများတောအုပ်၌ ဝါးရုံပင်များအောက်တွင်သီတင်းသုံး၏။ တရားဓမ္မများဟော၏။ ဘုန်းတော်ကြီး၏ဂုဏ်သတင်းကို ကြားသိပြီးဖြစ်၍ တွေ့လိုကြောင်းအမိန့်ရှိ၏။ ဘုန်းတော်ကြီးလည်း မကြာမီလာရောက်ဖူးမြော်၏။ ရွှေကျင်ဆရာတော်ဘုရားကြီး သည် အလွန်နှစ်သက်တော်မူ၏။ ရံခါတရားပွဲ၌ ဘုန်းတော်ကြီးကို တရားဟော ခိုင်း၏။ မိမိကိုယ်တိုင် ရှိသေစွာတရားနာ၏။ မထေရ်တရားဟောသည်ကို မထေရ်ကြီး ရိုသေစွာနားခြင်း၌ ရှင်နန္ဒဟောသောတရားကို ဘုရားရှင်တစ်ညဥ့်လုံး ရိုသေစွာ နာသကဲ့သို့တည်း။ 'ဓမ္မဂရုနော ဟိ တထာဂတာ' ဘုရားရှင်တိုင်းတို့သည် တရား တော်ကို အလေးပြုကြကုန်၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်းစာ ၊ ၂၆၄၊ အုတ်တွင်းမြို့၊ ကန်ကလေးတောရ ဆရာတော်က မိန့်ကြားခဲ့ပါသည်)

## ဘုန်းတော်ကြီး မီးရထား စတင်စီးသောနေ့အကြောင်း

ဘုန်းတော်ကြီး ဦးသီလသည် မီးရထားစီးတော်မူကြောင်း မှတ်တမ်းသည် ယခုအခါ အံ့ဖွယ် မဟုတ်သော်လည်း ရှေးသရောအခါကမူကား အထူးအဆန်းပင်ဖြစ်ခဲ့လေသည်။ အောက်ပါ မှတ်တမ်းကို ကြည့်ပါ။ ထိုအချက်ကို ရွှေကျင်နိကာယ သာသနာဝင် စာ - ၃၂၈ တွင် ဖတ်ရှုခဲ့ဖူးပါသည်။ ယခု မှတ်တမ်းကား ကြခတ်ဝိုင်းဆရာတော်၏ မှတ်တမ်းဖြစ်ပါသည်။

ယင်း တံခွန်တိုင်တောရကျောင်း သိမ်သမုတ်ပြီး၍ ပြာသိုလဆန်း ၈ ရက် တနင်္လာနေ့ နံနက်တွင် ညောင်လေးပင်သို့ကြွ၏။ ရေလမ်းခရီး ခတ်လှေကြီးဖြင့် ကွင်းဒလရွာသို့ ကြွ၏။ ယင်း ကွင်းဒလ ဆိပ်ကမ်းမှတက်ပြီး ညောင်လေးပင်အရောက် ပုဇွန်မြောင်းရွာ ဒကာများ ထမ်းစင်ဖြင့် ထမ်းပြီးပို့ကြ၏။ ၆ မိုင်မျှဝေး၏။ ထမ်းသူတို့မှာ လမ်းတစ်



လျှောက်လုံးခင်းထားသော အဝတ်များအပေါ်၌နင်းသွားကြရ၏။ ရုံခါကလေးသူငယ်နှင့် မကျန်းမာသူတို့သည် လမ်းလယ်၌ဝပ်လျက် အကျော်ခံကာ ပူဇော်နေကြ၏။ ထိုသူတို့ကို မနင်းမိအောင် ခဲယဉ်းစွာရှောင်၍ ထမ်းသွားကြရကုန်သတတ်။ ထိုနေ့ပင် ညောင်လေးပင်မှ ရန်ကုန်မှ နံနက်ထွက် မန္တလေးပေါက် မီးရထားတွဲမြူဖြင့် အုတ်တွင်းသို့ကြွလေ၏။ ဤနေ့သည် ဘုန်းတော်ကြီး ရှေးဦးစွာမီးရထားစီးသော နေ့စွဲတည်းဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း ့စာ ၊ ၂၇၄၊ ညောင်လေးပင် တောရ ဒုတိယ ဆရာတော် ဦးနေယျထံ မှ သိရပါသည်)

## တရားနာ ပြန်သွားသော ကျားကြီးအကြောင်း

ဘုန်းတော်ကြီး ဦးသီလအကြောင်းနှင့်စပ်လျဉ်းသော အံ့ဖွယ်ဖြစ်ရပ်မှန်များမှာ ထေရဝါဒ သာသနာတော်ကြီး၏ ဂန္ထဝင်မှတ်တမ်းများဖြစ်နေပါသည်။ ကျားကြီးတစ်ကောင်၏ တရားနာသော ဇာတ်လမ်းကို အောက်ပါအတိုင်း ဖတ်ရှုရပါသည်။

> ပဲခူးမြို့ကြီး၏ မြောက်ဘက်စူးစူး ၄ မိုင်မျှအကွာ ရှေးအခါ အရညကင်ဓူတင်တောရတောင်စဉ်ရှိ ဘုရားကုန်း၌ ဘုန်းတော်ကြီးသည် တစ်ဥတုမျှ သီတင်းသုံးတော်မူ၏။ ကပ္ပိယကြီးတစ်ဦးပါ၏ အနီးရှိ ရွှေလေ့ရွာ၊ ကော့ပြင်းရွာ၊ နဲမြရွာစသောရွာများရှိ ဒကာ ဒကာမများ အလွန်ဝမ်းသာကြ၏။ လက်လှမ်းမှီ ရွာများသို့ လှည့်လည်ဆွမ်းခံကြွ၏။ လေးတိုင် ပိတ်မိုးကျောင်းကလေးဖြင့် သီတင်းသုံး၏။ တစ်ညဉ့်သောအခါ အနီးရှိတောကြီးထဲမှ ကျားကြီးတစ်ကောင်သည် အစာရှာရင်း မျက်စိလည်လာသကဲ့သို့ ဆိုက်ဆိုက်မြိုက်မြိုက်တိုးဝင်လာ၏။ ကပ္ပိယကြီးက ဘုန်းတော်ကြီးအား ကျားကြီးတစ်ကောင် တိုးဝင်လာနေကြောင်း စိုးရိမ်တကြီးလျှောက်လေ၏။ ထိုအခါ ဘုန်းတော်ကြီးက 'ကပ္ပိယကြီး၊ တောက ဒကာကြီးဟာ တရားနာဖို့လာနေတာပါ၊ သင်၏ရန်သူလည်းမဟုတ်ပါဘူး'ဟု မိန့်၏။ ကျားကြီးသည်လည်း အနီးအပါး၌ ခေတ္တမျှ မလှုပ်မယှက်နေပြီး ဣန္ဒြေရရပင် တောနက်ထဲသို့ ဦးတည်ပြန်သွားလေ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ၊ ၂၈၃၊ ကွဲ့ဒညင်းကုန်းရွာ၊ ကျောင်းဆရာဟောင်း အသက် ၈၆ နှစ်ရှိ ဦးပန်းထံမှသိရပါသည်)

## သုံးကြိမ်တိုင် သေနတ်မီးမကူးခြင်း သိဒ္ဓိအကြောင်း

ဘုန်းတော်ကြီး ဦးသီလ၏ သီလသမာဓိပညာတော်ကို ဖတ်ရှုကြည်ညိုရသည်များတွင် အများသူငါ ရုတ်တရက်အံ့ဩကြသော အကြောင်းတစ်ခုမှာ သုံးကြိမ်တိုင်တိုင် သေနတ်မီးမကူးခြင်းဖြစ်ပါသည်။ ထိုအချက်ကို ခေတ်စကားဖြင့်ပြောရလျှင် သေနတ်ပြီးသူဟု အလွယ်ပြော၍ နားလည်နိုင်ပါ၏။ အောက်တွင်ကြည့်ပါ။

> ဘုန်းတော်ကြီးသည် ထိုကော့ပြင်းရွာ စသည်၌ သီတင်းသုံးလျက် လက်လှမ်းမမှီ ကျေးရွာများသို့ အလှည့်ကျ အချိန်မှန် ဆွမ်းခံကြွလေ့ရှိ၏။ တစ်နေ့သ၌ ဆွမ်းခံရန် ထွက်လာရာမှ အလွန်အေးမြသော ရာသီဖြစ်၍ နှင်းများလည်းမကွဲသေး။ ကုန်းစွန်း တစ်ခု၌ နေဆာကိုစောင့်ရင်း သပိတ်ချ ခေတ္တထိုင်နေ၏။ မျက်စိအောက် ရောက်နေသော မြက်ပင်လေးများ၏ အရွက်ဖျား၌ သီးနေသော နှင်းရည်ပေါက်တို့သည် တဖြုတ်ဖြုတ်ပြုတ်ကျ၍နေ၏။ ဒလစပ် ပျက်ကျ၍နေသည်ကို စူးစိုက်၍နေစဉ် နဲမြရွာမှ



မုဆိုးကြီးသည် သားကောင်ပစ်ခတ်ရန်တော၌ လှည့်လည်ရင်း ချောင်းမြောင်းကြည့်ရှုရာမှ ဘုန်းတော်ကြီးထိုင်နေသည်ကို သားကောင်တစ်ခုခုသာဖြစ်ရာ၏ဟု အလေးအနက် ဆုံးဖြတ်ချက်ချလိုက်ပြီး နောက်ဆုံး သေနတ်တစ်ကမ်းမျှသာ ကွာတော့သော အရပ်သို့ရောက်လာ၏။ အသင့်စီစဉ်ထားသော သေနတ်ဖြင့်ပစ်တော့၏။ သုံးကြိမ်တိုင် ပြင်ဆင်ပစ်သော်လည်း မီးမကူးသဖြင့် များစွာအံ့ဩ၏။ ဝေဖန်စဉ်းစား၏။ ဤမျှအခိုက်တွင် လှုပ်ရှားမှုကိုမတွေ့ရ။ စုံစမ်းရန်ချဉ်းကပ်သွား၏။ ဘုန်းတော်ကြီးမှန်းသိရ၍ ငါ့မှာ အမှားကြီးမှားပြီဟု အမျိုးမျိုးတောင်းပန်ကန်တော့၏။ လျှောက်ပတ်သော တရားစကားကို ဟောလိုက်၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၈၄၊ ကွဲခြည်းကျေးရွာ၊ ကျောင်းဆရာကြီးဟောင်း၊ အသက် ၈၆ နှစ်ရှိ ဦးပန်းထံမှ သိရပါသည်)

## ညွတ်သမား ညွတ်များ မီးရှို့သွားခြင်းအကြောင်း

ဘုန်းတော်ကြီးဦးသီလ၏ ဘုန်းတန်ခိုးတော် အကြောင်းတရားများကို ပြောကြားလျှင် ပြောကြားသူ၏ အပြောမတတ်မှုကြောင့် ရဟန္တာအရှင်မြတ်ကြီး၏ ဂုဏ်တော်များပင် ညှိုးနွမ်းသွားနိုင်စရာ အကြောင်းရှိပါသည်။ သို့သော်လည်း ယခုဖြစ်ရပ်မှန်ကား အံ့ဩကြည်ညိုဖွယ်ဖြစ်သည်သာမက လိုက်နာကျင့်ကြံဖွယ်ဖြစ်သဖြင့် သာသနာတော်ကို အထောက်အကူပြုနိုင်ပါသည်။ ဖတ်ကြည့်စေချင်ပါ၏။

ထိုနေရာ၌ သီတင်းသုံးနေစဉ်ပင် တစ်နေ့သည် ကော့ပြင်းရွာသို့ ဆွမ်းခံကြွလေ၏။ တောင်စွန်ရှိပိန်း အင်းနှင့်လေးဖာလုံအကွာ၌ ကျယ်ပြန့်သော တောကြီးတစ်တောရှိ၏။ ကော့ပြင်းရွာမှ ညွတ်ထောင် စားသောက်အသက်မွေးသော ညွတ်သမားတစ်ဦးရှိ၏။ ယင်းညွတ်သမားသည် အရုဏ်တက်ခါနီးအချိန်တွင် ယုန်နှင့်တောကြက် စသောသားကောင်ငယ်များ ဖမ်းမိစေရန် လာရောက်ညွတ်ထောင်လျက် ပုန်းအုံတစ်ခု၌ဝင်ခိုနေ၏။ ဘုန်းတော်ကြီးသည် အရုဏ်တက်သောအခါ ဆွမ်းခံကြွလာ၏။ ယင်းညွတ်သမား၏ ညွတ်ကွင်းသည် ဘုန်းတော်ကြီး၏ ညာခြေတော်ကိုဖမ်းမိနေ၏။ ဘုန်းတော်ကြီးသည် အမှတ်မဲ့တစ်စုံတစ်ခုဖြစ်ရာ၏ဟု ငုံ့ကြည့်လိုက်၏။ တစ်ဦးတစ်ယောက်ထောင်ထားသော ညွတ်ကွင်းသို့ မိမိ မိနေကြောင်းသိ၏။ စုံရပ်ပြီး ရှေ့သို့ဆက်မသွားတော့ပေ။ ပုန်းအုံအတွင်းမှ ညွတ်သမားသည် မိမိညွတ်ကွင်း၌ သားကောင်မိနေပြီလေဟု ထကြည့်သည့်အခါ ဘုန်းတော်ကြီးအား မိနေသည်ကိုသိသွား၏။ များစွာစိတ်မကောင်း ဖြစ်သွား၏။ မည်သို့မျှမကြံတတ်။ နာရီဝက်ကျော်ကျော်မျှရှိသွားလေပြီ။ ညွတ်သမားသည် တွေးတောရင်း သတိတစ်ခုရလာ၏။ ဘုန်းတော်ကြီးသည် ငါမသွားဝံ့၍ ဆွမ်း တစ်နပ်လစ်ဟင်းပါက ငါ၏အပြစ်သည် ပို၍ကြီးသွားတော့မည်၊ ရိုက်လိုက ရိုက်ပါစေ၊ ကန်လိုကကန်ပါစေ၊ ပြုသမျှခံတော့မည်ဟု ဇွတ်တိုးသွားဖြုတ်၏။ ဘုန်းတော်ကြီးက 'ဒကာ၊ ဒါမင်းညွတ်မှန်ရဲ့လား' ဟုမေး၏။ မှန်ပါကြောင်းလျှောက်ထား၏။ သင့်တော်သော တရားကိုဟောကြားသွားလေ၏။ ယင်းညွတ်သမားလည်း အထူးသံဝေဂဖြစ်ကာ ညွတ်များကို အားလုံးသိမ်းလျက် လယ်ကွင်းထဲတွင်ပုံ၍ မီးရှို့သွားကြောင်းသိရ၏။ ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၈၆၊ ကွဲခြည်းကုန်းရွာ၊ ကျောင်းဆရာကြီးဟောင်း အသက် ၈၆ နှစ်ရှိ ဦးပန်းထံမှ သိရပါသည်)

## ဝိုင်းဂနိုင်းအသွား မီးရထား ရပ်ခြင်းအကြောင်း



ဘုန်းတော်ကြီးဦးသီလကြောင့် မီးရထားကြီးတစ်စင်းသည် အရှိန်နှင့်ခုတ်မောင်းလာရာမှာ ရုတ်တရက် ရပ်သွားသည်ဟုဆိုလျှင် အသင်သည်မည်ကဲ့သို့ထင်မြင်ယူဆနိုင်မည်နည်း။ တွေးတောနိုင်အောင် ဖြစ်ရပ်မှန်တစ်ခုတင်ပြပါသည်။ ဖတ်ကြည့်ပါ။

ဘုန်းတော်ကြီးသည် ပဲခူးမြို့နယ် ရွှေလှေရွာနှင့် မနီးမဝေး ခုန်တိုင်းကျေးရွာအနီး တစ်ခုသောတောဌ် သီတင်းသုံးနေစဉ် တစ်နေ့သ၌ ဝိုင်းဂနိုင်းကြီးရွာသို့ ဆွမ်းခံကြွတော်မူလာ၏။ မန္တလေးမြို့မှ အောက်ရပ်ဒေသသို့ ခုတ်မောင်း စုန်ဆင်းလာသော အမြန်စာပို့သမားကြီးနှင့် တံတားနံပါတ် ၆၅ (ရွှေလှေတံတား)၏ တောင်ဘက် တစ်ဖာလုံအကွာလောက်တွင် ယင်းမီးရထားကြီးက အလိုလိုရပ်သွားလေ၏။ မီးရထားခေါင်းမှ စက်ဗိုလ်နှင့်ဂါတ်ဗိုလ်များနှင့် သက်ဆိုင်ရာတာဝန်ရှိပုဂ္ဂိုလ်များ ဆင်းလာစုံစမ်းကြ၏။ ထို့နောက် ခရီးသည်များပါဆင်းလာကြ၏။ မီးရထားကြီးက ချွတ်ယွင်းမှုလုံးဝမရှိ၊ ဘာ့ကြောင့် ရပ်သွားသည်ကိုလည်းမသိရ၊ ထို့နောက်မှ ရှေ့သို့လှမ်းကြည့်ရာ တစ်ဖာလုံခန့်အကွာတွင် မီးရထားလမ်းပေါ်၌ ဘုန်းတော်ကြီးကြွလာနေသည်ကို မြင်ကြရ၏။ ဘုန်းတော်ကြီးကြောင့် ရပ်သလောဟု တအံ့တသြပြောဆိုကြ၏။ သွားရောက်ဖူးမြော်ကန်တော့ကြ၏။ ဘုန်းတော်ကြီးလည်း မည်သို့မျှမပြော။ လိုရာခရီး ဝိုင်းဂနိုင်းရွာသို့ ဦးတည်ကြွသွား၏။ ပရိသတ်အားလုံးတို့သည်လည်း ရထားပေါ်ပြန်တက်ကြ၏။ မီးရထားကြီးမှာလည်း အလွယ်တကူ စက်နိုးလျက် ချွတ်ယွင်းမှုကင်းမဲ့စွာ မောင်းနှင်ထွက်သွားလေ၏။ တအံ့တသြပြောဆိုကြရင်း ပဲခူးဘူတာကြီးသို့ ဝင်လာ၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၈၇၊ ကျွဲဒညင်း ကျေးရွာ၊ ကျောင်းဆရာကြီးဟောင်း အသက် ၈၆ နှစ်ရှိ ဦးပန်းထံမှ သိရပါသည်။)

## ရွှေကျင်နယ် ဘုန်းတော်ကြီး၏ သိမ်ငါးလုံးအကြောင်း

ဘုန်းတော်ကြီး ဦးသီလသည် သမိုင်းဝင်သိမ်တော်ကြီးများကို သမုတ်ခဲ့သည်မှာ သီပေါမင်းပါတော်မမူခင် ၃ နှစ်လောက် ကာလကတည်းကဖြစ်၏။ ထိုစဉ်ကတည်းက ဆင်ရုံတောရကို စတင်တည်ထောင်ခဲ့ကြောင်း သမိုင်းရှိပါသည်။

၁၈၈၂ ဘုန်းတော်ကြီး ဦးသီလသည် အေဒီ ၁၈၈၂ခု (၁၂၄၄ ခုနှစ်) တွင် ရွှေကျင်မြို့အနီး ကျောင်းဝိုင်းကြီးခေါ် ဆင်ရုံတောရကို စတင် တည်ထောင်သီတင်းသုံး၏။ ထိုအခါ ရွှေကျင်မြို့၏ ပတ်ဝန်းကျင်၌ သိမ်ကြီး ငါးလုံး ကိုယ်တိုင် သမုတ်ပေးတော်မူ၏။ ယင်းငါးလုံးတို့မှာ - (၁) ကျောင်းဝိုင်းကြီးသိမ်၊ (၂) ကြားတောရ သိမ်၊ (၃) ဆိပ်ကလေးတောရကြီးသိမ်၊ (၄) ရွှေဂူတောရသိမ်၊ (၅) တံခွန်တိုင်တောရသိမ် ယင်းသိမ်တို့ဖြစ်ပါသည်။ သံဃာတော်များကပင် ဆက်လက် သာသနာပြု ထိန်းသိမ်းနိုင်ခဲ့ပါသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၂၈၈၊ ညောင်လေးပင်မြို့၊ ဗိုလ်ချုပ်လမ်း၊ အသက် ၉၀ ရှိ ရွှေကျင်တောင်ဘက်သူ ဒေါ်သင်းချုံထံမှ သိရပါသည်။)



## ရှောင်ရှားသွားသော ဆင်ဆိုးကြီးအကြောင်း

ဘုန်းတော်ကြီး ဦးသီလ၏ သီလ၊ သမာဓိ၊ ပညာတော်ကို ရိုသေလေးစားကြသည်မှာ လူများသာမက အဟိတ်တိရစ္ဆာန်များပင် ပါဝင်သည်ဟုဆိုနိုင်ပါသည်။ ထိုအချက်ကို ရွှေကျင်တွင်သီတင်းသုံးစဉ်က တွေ့ခဲ့ရသော ဆင်ဆိုးကြီးတစ်ကောင်က သက်သေထူခဲ့ပါသည်။ အောက်တွင်ကြည့်ပါ။

> ဘုန်းတော်ကြီးသည် ရွှေကျင်မြို့တွင် သီတင်းသုံးနေစဉ် ရွှေတောင်ဦးဂူ၊ တပ်ကုန်း ဦးနန္ဒသိမ်၊ ကျောင်းဝိုင်းကြီး ဦးဇယန္တကျောင်းတို့၌ လှည့်လည်သီတင်းသုံးခဲ့၏။ တောရသောနေရာတို့၌သာ တောအာရုံယူလျက် သီတင်းသုံးခြင်းဖြစ်၏။ ထို့နောက်မှာမူ မြို့သူကြီးများဖြစ်ကြသော ဦးသာလေး၊ ဦးကြာညွန့်၊ ဦးရွှေဒုံး၊ ဦးဘိုးတေတို့၏ စေတနာအရ အလံ ၅၀၀ မြို့မှ ကွာသော ဝိဝေကနှစ်ပါးနှင့်ပြည့်စုံသည့် ဆိပ်ကလေးတောရကို ရှာဖွေဖန်တီးပေးကြ၏။ များစွာစိတ်ချမ်းသာတော်မူ၏။ ရံခါ ဖွားမျှင်ဥယျာဉ်၌သီတင်းသုံး၏။ ထိုအခါ ဆွမ်းခံကြွရင်း မုန်ယိုစိတ် ပြင်းထန်နေသော မုန်ယစ်ဆင်ဆိုးကြီးနှင့် တစ်ခုသော လမ်းအကြား၌ရင်ဆိုင်တွေ့ရ၏။ အနီးရှိ ကြိုတင်သိ ခရီးသွားများက ဘုန်းတော်ကြီးအတွက် များစွာစိတ်ပူလျက် ဆင်ဆိုးကြီးလာနေကြောင်း၊ လွတ်ရာသို့ ရှောင်တိမ်းကာ ကြွပေးဖို့အကြောင်း အော်ဟစ်လျှောက်ကြ၏။ ဘုန်းတော်ကြီးအား မကြားသကဲ့သို့ ဣန္ဒြေမပျက်ကြွမြဲကြွသွား၏။ ဆင်ဆိုးကြီးမှာလည်း မှန်မှန်ကြီးစူးစိုက်ကာလာမြဲလာနေ၏။ အနီးအစပ် ကပ်လာသောအခါ မြင်ရသူများမှာ ပို၍ထိတ်လန့်ကြ၏။ ဆင်ဆိုးကြီးမှာ ဘုန်းတော်ကြီးအားအနီးမှပင်ကပ်၍ ရှောင်ကွင်းသွားလေ၏ဟုသိရပါသည်။
>
> (ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၀၊ ၂၉၁၊ ညောင်လေးပင်မြို့ ဗိုလ်ချုပ်လမ်း၊ အသက် ၉၀ ရှိ ရွှေကျင်တောင်ဘက်သူ ဒေါ်သင်းချုံထံမှ သိရပါသည်။)

## မြွေဆိုးများကြောင့် တောဟိန်းသွားခြင်းအကြောင်း

ဘုန်းတော်ကြီးဦးသီလ၏ မေတ္တာတရားကြောင့် မြွေဆိုးများကပင်လျှင် ရှောင်ရှားပေးကြရပါသည်။ ဆရာတော်ဘုရားကြီး မြွေဆိုးကြီးများအား တရားဟောတော်မူကြောင်း အထောက်အထားများ ရှိပါသည်။

> ယင်းဆိပ်ကလေးတောရ၌ သီတင်းသုံးနေစဉ် တစ်နေ့သ၌ အနီးရှိ တောင်ချောက်တစ်ခုမှ ထန်းပင်လုံး သဖွယ်ကြီးကျယ်ရှည်လျားသော မြွေဆိုးကြီးနှစ်ကောင်နှင့် တွေ့ရ၏။ ငန်းမြွေကြီးများဟုယူဆကြ၏။ ယင်းတောင်ချောက်အတွင်း၌ မြွေဆိုးကြီးများရှိကြောင်း နယ်မြေ၌သတင်းကြီး၏။ နယ်မြေရှိ ဒကာ ဒကာမများက ဘုန်းတော်ကြီးအား ထိုအရပ်သို့မကြွရန် တားမြစ်လျှောက်ထားကြ၏။ ဘုန်းတော်ကြီးသည် မည်သို့မျှ ဂရုမစိုက်ခဲ့။ ယင်းမြွေဆိုးကြီးများအား 'မိမိ ဤနေရာသို့ ရောက်ရခြင်းမှာ တရားနှလုံးသွင်းရန်သာဖြစ်၏။ သင်တို့အား နှောင့်ယှက်ရန်မဟုတ်၊ သင်တို့ စိတ်ချမ်းသာသလို နေကြရန်သာဖြစ်၏။ ငါ၏ပို့သသောမေတ္တာကိုလည်း ခံယူစေလို၏'ဟု နေ့စဉ် တရားဟော၏။ များမကြာမီ မြွေဆိုးကြီးများသည် နောက်ပါအပေါင်းအသင်းနှင့် တကွ အစုအပြုံ ထိုတောမှရွှေ့ပြောင်းသွားကြ၏။ တောအလုံးပါ အသံကြီးများဟိန်း



သွားသည်ကို အနီးအပါးရှိတောင်ယာသမားများ အများအပြားကြားကြရ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၁-၂၉၂ ညောင်လေးပင်မြို့ ဗိုလ်ချုပ်လမ်း၊ အသက် ၉၀ ရှိ ရွှေကျင်တောင်ဘက်သူ ဒေါ်သင်းချုံထံမှ သိရပါသည်။)

## အလွန်ကျော်ကြားသော သေက္ခတောင် ဦးတိလောကနှင့် အမေးအဖြေ စိပ်ပုတီးပြဿနာ

ဘုန်းတော်ကြီး ဦးသီလသည် ရွှေကျင်နယ်တွင် သီတင်းသုံးစဉ် ကျိုက်ထိုသို့ရောက်သွား၏။ ထိုအခါ သေက္ခတောင်တွင် သီတင်းသုံးနေသော ရသေ့ ဦးတိလောကနှင့် တွေ့ရသည်ဟုဆိုပါသည်။ ဤတွင် ဆရာတော်ဘုရားကြီးက ပုတီးစိပ်ခြင်းပြဿနာကို အောက်ပါအတိုင်းဖြေရှင်းပေးခဲ့ကြောင်း သိရပါသည်။

၁၈၉၈-၁၉၀၀ ဘုန်းတော်ကြီး အေဒီ ၁၈၉၈ မှ ၁၉၀၀ ၊ (၁၂၆၀ ခုနှစ်မှ ၁၂၆၂ ခုနှစ်) အထိ ရွှေကျင်နယ်၌ သီတင်းသုံးလျက် ဒကာ ကိုထွန်းအောင်ပင့်သဖြင့် ခရွဲတောင်သို့ ကြွ၏။ ကျိုက်ထိုမြို့သို့ ရောက်၍ ဆိပ်ဖူးတောင်၊ သစ်ချတောင် စသည်တို့ကိုလည်း ရောက်၏။ သစ်ချတောင်တွင် ရသေ့ဦးတိလောကနှင့်တွေ့ကြ၏။ အမျိုးမျိုး ရသေ့ ဦးတိလောကမှ လျှောက်ထား၏။ တစ်ခုဖြတ်လျှောက်သည်မှာ ပုတီး စိပ်ခြင်းသည် (လိမ်ကွင်း) စိပ်ခြင်းပင် ဖြစ်ကြောင်းလျှောက်၏။ လိမ်လည်ခြင်းသာ ဖြစ်သည်ဟု ဆို လို၏။ ယင်းပြဿနာကို ဘုန်းတော်ကြီးက နွားလှည်း ဥပမာဖြင့် ဖြေရှင်းပေးတော်မူ၏။ ဖြေရှင်းပေးပုံမှာ နွားလှည်းကို နွားများ ဆွဲသွားလေ၏။ နွားများနောက်သို့ လှည်းပါသွားလေ၏။ နွားများကြောင့် လှည်းသည် ရွေ့လျားသည်မှန်၏။ သို့သော် ထိုလှည်း လမ်းမှန်သို့ ရောက်အောင် လှည်းမောင်းသူ လူက နွား၏ ကြိုးကိုမလွှတ်ဘဲ ထိန်းသိမ်း တည့်မတ်ပေးလေ၏။ လမ်းမှန်ရောက်ဖို့က အဓိက နွား၏ တာဝန်မဟုတ်။ လူ၏တာဝန်သာ ဖြစ်၏။ ယခု ပုတီးစိပ်ရာ၌လည်း ပုတီး၏တာဝန် မဟုတ်၊ စိပ်သူ၏ တာဝန်သာဖြစ်၏။ စိပ်သူ မိမိကိုယ်တိုင်က မလိမ်ဖို့ နှလုံးသားကောင်းဖို့ လို၏။ မိမိကိုယ်တိုင်က မလိမ်လျှင် ယင်းပုတီးကို လိမ်ကွင်းဟု မခေါ်နိုင်ပါ။ မိမိကိုယ်တိုင်က နွားလှည်းမောင်းသူ ဥပမာကဲ့သို့ လမ်းမှန်ရောက်အောင် (သမာဓိဖြစ်အောင်၊ ရေတွက်၍ရအောင်) ပုတီးကိုင်သော်လည်း ပုတီးကို အဓိကမထားဘဲ စေတနာ ဖြူစင်စွာ အားထုတ်ဖို့လိုကြောင်း ဩဝါဒပေးသွား၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၃-၂၉၄၊ ညောင်လေးပင်မြို့နယ်၊ ဗိုလ်ချုပ်လမ်း အသက် ၉၀ ရှိ ရွှေကျင်တောင် ဒေါ်သင်းချုံထံမှသိရပါသည်။)

## ဆိပ်ကလေးတောရနှင့် ဂူကြီးသုံးခုအကြောင်း

ဘုန်းတော်ကြီးဦးသီလ တရားအားထုတ်ခဲ့သော အောင်မြေနေရာများတွင် ရွှေကျင်မြို့ရှိ ဂူကြီးများလည်း အပါအဝင်ဖြစ်ပါသည်။ ထိုဂူကြီးများသည် လောကသဘောအရ ပြောကြသည်မှာ ဥစ္စာစောင့်များရှိသည်ဟူ၏။ ဆရာတော်ဘုရားကြီး၏ အောင်မြေများကိုလေ့လာရာ ရွှေကျင် ဆိပ်ကလေး တောရဂူများလည်းပါဝင်ပါသည်။ အောက်ပါစာသားကိုဖတ်ကြည့်ပါ။

ရွှေကျင်မြို့နယ် ဆိပ်ကလေးတောရတွင် ယခုတိုင် ဂူကြီးသုံးဂူရှိနေ၏။ တစ်ဂူမှာ ဘုန်းတော်ကြီး ဦးသီလကိုယ်တိုင် သီတင်းသုံးသွားသောဂူဖြစ်၏။ အခြား(ဒုတိယ)ဂူမှာ



ဒေါ်ငွေးရွှေ၏ အဘွားဖြစ်သူ ဖွားသဲမှုန်က တရားဓမ္မကျင့်ကြံပွားများ အားထုတ်လိုသူများအတွက် ဆောက်လုပ်လှူဒါန်းထားခဲ့သောဂူဖြစ်၏။ နောက်(တတိယ) ဂူမှာ ရှေးနှစ်ပေါင်းများစွာမှ တည်ရှိလာသောဂူဖြစ်၍ ယင်းဂူ၏ အကြောင်းအရာကို စုံစမ်း၍မရခဲ့။ သိုက်ဆရာများ သတင်းအရ မကြာခဏ ရောက်လာကြ၏။ ယခုတိုင် တူးဖော်၍မရကြ။ အချို့ တူးဖော်ခြင်းငှာပင်မဝံ့ကြ။ ကြီးမားသော ဥစ္စာစောင့်များ ရှိနေကြသည်ဟုဆို၏။ ခံရပေါင်း များပြီဟုလည်းဆို၏။ မြသပိတ်၊ ရွှေကွမ်းအစ်၊ ရွှေမန်ကျည်းတောင့် စသည်များကို တရားထိုင်သူများအား တစ်ခါတရံ ပြသလေ့ရှိ၏။ အချို့လည်း အိပ်မက်တွင် မကြာခဏ မြင်ရကြောင်းသိရ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၁၉၄-၂၉၅၊ ညောင်လေးပင်မြို့ ဗိုလ်ချုပ်လမ်း၊ အသက် ၉၀ ရှိ ရွှေကျင်တောင်ဘက်သူ ဒေါ်သင်းချို့ထံမှ သိရပါသည်)

## သန်းဥ မတုပ်နှင့်

ဘုန်းတော်ကြီး ဦးသီလ ဟောကြားတော်မူသော တရားများမှာ ရိုးရိုးစင်းစင်း ရှင်းရှင်းကြီး ဖြစ်ပါသည်။ တစ်ရံရောအခါက ဟောကြားတော်မူသောတရားမှာ ယနေ့တိုင်မမေ့နိုင်သည်များရှိပါသည်။ အောက်ပါ မှတ်တမ်းကိုကြည့်ပါ။

တရားဟောပုံကား သူ့အသက်မသတ်နှင့်၊ သူ့ ဥစ္စာ မခိုးနှင့်၊ သန်းဥမတုပ်နှင့် ငရဲကြီးသည်။ သရက်စိုက်မှအချိုသီးသည်။ တမာစိုက်လျှင် အခါးသီးသည်။ ရတနာသုံးပါးကို အစစ်အမှန်ဟုယုံကြည်ကြ။ ဤအနေမျှ ဟောပြီးလျှင် သွားကြသွားကြဟု မိန့်ဆိုလေ့ရှိသည်။ တရားနာရသူတို့ကား တစ်သက်လုံးမမေ့နိုင်ကြ။ သန်းဥမတုပ်နှင့်ဟူသော မိန့်ကြားမှုကိုပင် နှစ်သက်စွာထိတ်လန့်ကုန်၏။ တစ်ခါတစ်ရံကား ရူပက္ခန္ဓာ အနိစ္စာ ဒုက္ခာ အနတ္တာ စသည်ဖြင့် ခန္ဓာငါးပါး ဝိပဿနာ တင်ပုံမျှလောက် ချပေးလေ၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၃၀၁-၃၀၂၊ ညောင်လေးပင်မြို့ တောရကြီး ကျောင်းတိုက် ဆရာတော် ဦးအရိယထံမှ သိရပါသည်။)

## အကျွတ်အလွတ်အနီးက ထူးခြားသောနတ်ရေတွင်း

ဘုန်းတော်ကြီး ဦးသီလနှင့် စပ်လျဉ်းသော နတ်ရေတွင်း တစ်တွင်းကို ပဲခူးမြို့ အကျွတ်အလွတ် စေတီတော်များအနီးတွင်တွေ့ရှိရပါသည်။ ထိုရေတွင်းကို နတ်ရေတွင်းဟု ယခုတိုင်ခေါ်ဝေါ်ကြပါသည်။ ထိုရေတွင်းမှာ တစ်နှစ်ပတ်လုံး မခန်းဟု အထူးအဆန်းသိရပါသည်။ ရောဂါမျိုးစုံ ပျောက်သည်ဟုလည်း သိရပါသည်။ မှတ်တမ်းရှာကြည့်ရာ အောက်ပါအတိုင်းတွေ့ရပါသည်။

ပဲခူးမြို့ အနောက်တော၊ အကျွတ်အလွတ် စေတီတော်များ၏ အနောက်တောင် သုံးဖာလုံခန့်၌ ရှေးက ဘုန်းတော်ကြီး သီတင်းသုံးသွားသည့် ကျောင်းနေရာကလေး အမှတ်တရ တွေ့နိုင်သေး၏။ ယခု ရေတွင်းငယ်တစ်ခုရှိ၏။ နှောင်းပုဂ္ဂိုလ်များ ပြုပြင်ထား၏။ နတ်ရေတွင်းဟုခေါ်ကြ၏။ ယင်းရေတွင်းငယ်မှ ရေများကို ဆေးဝါး အဖြစ်အသုံးပြုကြ၏။ ရောဂါဝေဒနာများ ပျောက်ကင်းဖူးသူများလည်းရှိကြ၏။ အဝ လေးပေမျှရှိမည်ဖြစ်၏။ များစွာ မနက်သော်လည်း (နွေ၊ မိုး၊ ဆောင်း) ဥတုသုံးပါးလုံး၌



ရေလျော့နည်းခြင်းမရှိ၊ ခပ်သမျှပြည့်လာနေသည်ကိုတွေ့ရ၏။ နောက်ကျိခြင်း၊ အရသာပြောင်းခြင်းလည်းမရှိဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၃၀၇-၃၀၈၊ ဒေါ်အုံးစိန်၊ မြောက်ပိုင်း ကင်းချောင်းရွာ၊ ပဲခူးမြို့နယ် သိရပါသည်။)

## နူနာရောဂါ ဖြစ်နေသူ၏ ပြတ်ပါသွားသော လက်သန်းတစ်ဆစ်

ဘုန်းတော်ကြီး ဦးသီလ၏ အံ့ဖွယ်များကို ကြည်ညိုဖွယ်ရာ ပြောကြားရာတွင် နူနာ ရောဂါဆိုးဆိုးဝါးဝါးဖြစ်နေသူတစ်ယောက်၏ ပြတ်သွားသော လက်သန်းကလေးတစ်ချောင်းအကြောင်းကို တစ်စွန်းတစ်စကြားသိရပါသည်။ အထောက်အထားရှာရာ ဤသို့တွေ့ရပါသည်။

ပဲခူးမြို့နယ် ဇောင်းလျားကုန်းရွာအနီး သုံးဖာလုံမျှဝေးသော မဟာမြိုင်ဟုခေါ်သော တောထဲတွင် ရှေးဟောင်းစေတီအနီး ဂူတစ်ခု၌ ဘုန်းတော်ကြီး သီတင်းသုံးနေ၏။ အနာကြီးရောဂါ (ကုဋ္ဌဝေဒနာရှင်)သည် ယောကျ်ားကြီးတစ်ဦးလည်း ဝေယျာဝစ္စပြု ကပ္ပိယလုပ်၍နေ၏။ ဘုန်းတော်ကြီးလည်း စေ့စေ့စပ်စပ် ကြည့်ပုံသိပုံမပေါ်၊ ပိဏ္ဍပါတ်ခူတင်အရ ဆွမ်းခံရလာသမျှကို သပိတ်ပါ ကပ္ပိယကြီးအားလှမ်းပေး၊ ပတ္တပိုဏ်အဖြစ် နယ်စေပြီး ခပ်သွက်သွက်ဖြစ်လာအောင် ရေနှစ်ခွက်ခန့်ရောပေးရ၏။ ကပ္ပိယကြီး နယ်ဖတ်ပြင်ဆင်ကာ ကပ်သမျှကို ဘုဉ်းပေးလေ့ရှိ၏။ တစ်နေ့၌ ဘုဉ်းပေးပြီးသောအခါ 'ဟဲ့ ကပ္ပိယကြီး နင့်လက်ချောင်းလေးတွေ အစေ့ရှိသေးရဲ့လား'ဟုမေး၏။ လက်သန်းကလေးတစ်ဆစ် ပြတ်ပါသွားကြောင်းလျှောက်၏။ အကြောင်းမှာ နူနာရောဂါမှာ အလွန်ဆိုးရွား ရိုပြတ်စားလျက် သပိတ်၌ ဆွမ်းများနယ်ရင်း ပြတ်ပါသွားလေ၏။ ဖယ်ယူမထားလိုက်မိ ဟူသတတ်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၃၁၂-၃၂၂၊ ဦးသာလှခေါ် ဦးပဠင်းကြီး၊ မြောက်ကျောင်း ကင်းချောင်းရွာ၊ ပဲခူးမြို့နယ် ထံမှ သိရပါသည်။)

## ကျားကြီးတစ်ကောင်၏ ဝဲနာရောဂါ နူနာပါ ပျောက်ကင်းခြင်း

ဘုန်းတော်ကြီး ဦးသီလ၏ မေတ္တာတော် အာနုဘော်ကြောင့် ဝဲနာရောဂါ နူနာရောဂါ ပျောက်သွားသော ကျားကြီးတစ်ကောင်ရှိကြောင်းကို အံ့ဩဖွယ်ရာ ကြားသိရပါသည်။ ထိုအချက်ကို ရှာရာ ဤသို့တွေ့ရှိရပါသည်။

နောက်မကြာမီ ယင်းကပ္ပိယကြီး၏ အကြောင်းခြင်းရာကို သိသွားပြီးတစ်နေ့ပြောလေ၏။ ကပ္ပိယကြီး၊ ဝဲစွဲနေတဲ့ ကျားကြီးတစ်ကောင် မကြာခဏလာတတ်တယ်။ သူ့မှာ မအိပ်နိုင်အောင် ဝဲတွေကုပ်နေတဲ့ ဒုက္ခရောက်နေတယ်။ သူ့ဝေဒနာလည်း ပျောက်၊ သင့်ဝေဒနာလည်း ပျောက်အောင်ကုပေးမယ်။ အဲဒီကျားကြီးကို ငါအခု ခေါ်ထားတယ်။ မကြာမီရောက်လာလိမ့်မယ်။ ရောက်လာပြီး။ ဟိန်းဟောက်၍နေ၏။ နင့်ရောဂါတွေ ငါကုပေးမယ်၊ ငြိမ်ငြိမ်နေဟုဆိုပြီး ကပ္ပိယကြီးအား ရေချိုးပေးစေ၏။ နေ့စဉ်လာရောက်ရေချိုးခံ၏။ ၁၅ ရက်ခန့် ကြာသောအခါ ကျားကြီး၏ ခန္ဓာကိုယ်မှ ဝဲစားလျက်ယားယံ ဝေဒနာတွေရော၊ ကပ္ပိယကြီး၏ နူနာကုဋ္ဌဝေဒနာတွေပါ အားလုံးပျောက်ကင်းသွား၏။ လက်အတိုများလည်း အတိုအတိုင်း၊ ခြေအတိုများလည်း အတိုအတိုင်း ပျောက်ကင်းလျက် ပကတိအသားအတိုင်းဖြစ်သွား၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၃၁၁-၃၁၂ ဦးသာလှပေါ်ခေါ် ဦးပဠင်းကြီး မြောက်ကျောင်း ကင်းချောင်း ရွာ၊ ပဲခူးမြို့နယ်သိရပါသည်)



## ခေါင်းအောက်စိုက် စုံရပ်နေသော ကျွဲရိုင်းမကြီး

ဘုန်းတော်ကြီး ဦးသီလနှင့် စပ်လျဉ်းသော အံ့ဩကြည်ညိုဖွယ်ရာ ဖြစ်ရပ်မှန်များတွင် အလွန်ရိုင်းသော ကျွဲရိုင်းကြီးတစ်ကောင်နှင့် တွေ့ဆုံပုံလည်းပါဝင်ပါသည်။ ဖြစ်ရပ်မှန်မှာ မဟာမြိုင်တောကြီး အနီးတွင် ဖြစ်ခဲ့ကြောင်းစုံစမ်းသိရှိရပါသည်။ အောက်တွင် အထောက်အထား ခိုင်လုံစွာတွေ့ရပါသည်။

ယင်းမဟာမြိုင်တောမှ မြောက်ဘက် မလုမ်းမကမ်းရွာများသို့ နေ့စဉ်ဆွမ်းခံကြွလေ့ရှိ၏။ တစ်နေ့သောအခါ ကုလားကြီးတစ်ဦး၏ အလွန်ရိုင်း အလွန်ဆိုးသည်ဟု ကျော်ကြားနေသော ကျွဲရိုင်းမကြီးနှင့် ပက်ပင်းတိုးမိနေ၏။ မြင်မြင်သမျှ လိုက်လံခတ်လေ့ရှိ၏။ ဘုန်းကြီးနှင့်ကျွဲမို့ ပို၍သဲလိမ့်မည်ဟု အထူးစိတ်ပူနေကြ၏။ မရှောင်သာသော လမ်းအကြား၌ဖြစ်၍နေ၏။ ကျွဲရှင်ကုလားကြီးကလည်း 'ဘုန်းကြီး' ရှောင်ပြေးပါ၊ ဘုန်းကြီး ရှောင်ပြေးပါ' ဟုသာ ကုန်း၍အော်နေ၏။ ဘုန်းတော်ကြီးကား ဣန္ဒြေမပျက်လမ်း၏ အလယ်တည့်တည့်၌ စုံရပ်ကာ ဆိတ်ဆိတ်နေလေ၏။ ပျံလွန်လေမလား ဟု ရင်ဖိုနေကြ၏။ ကျွဲရိုင်းမကြီးသည်အနီးသို့ ရောက်သောအခါ ပတ်ချာလည် ရစ်သီလျက်နေလေ၏။ 'ဟဲ့ လူတွေကို ဒုက္ခမပေးနဲ့၊ ဘေးတွေ့တတ်တယ်'ဟု မိန့်တော်မူ၏။ ကျွဲရိုင်းမကြီးသည် ခေါင်းအောက်စိုက်စုံရပ်နေ၏။ ဘုန်းတော်ကြီးလည်းကြွသွားတော်မူ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၃၁၁-၃၁၂ ဦးသာလှခေါ် ဦးပဥ္စင်းကြီး မြောက်ကျောင်းကင်း ချောင်းရွာ၊ ပဲခူးမြို့နယ် သိရပါသည်)

## နွားဆိုးကြီး အကြောင်း

ဘုန်းတော်ကြီး ဦးသီလ၏ ကြည်ညိုဖွယ်ရာ အံ့ဩဖွယ်ရာများတွင် အလွန်ရိုင်းစိုင်းသော တိရစ္ဆာန်များနှင့် စပ်လျဉ်းသော ဖြစ်ရပ်မှန်များလည်းပါရှိရာ ကျိုက်ထို ဆိတ်ဖူးတောင်မှာတွေ့ရသော နွားဆိုးကြီးတစ်ကောင်အကြောင်းကိုလည်း အောက်ပါအတိုင်းစုံစမ်းသိရှိရပါသည်။

ကျိုက်ထိုမြို့ ဆိတ်ဖူးတောင်၌ နေစဉ် တစ်နေ့သ၌ ကျိုက်ထိုမြို့တွင်း မယ်ဇယ်ကျောင်းသို့ ကြွသွား၏။ ပြန်အလာ ယင်းမယ်ဇယ်ဆရာတော်လည်း တစ်ပါတည်း လိုက်၍ ပို့လေ၏။ နှစ်ဖက်တံတိုင်း အုတ်တံတား လမ်းအကျဉ်း မရှောင်သောနေရာ တစ်ခုသို့ ရောက်သောအခါ နွားသိုးကြီး (နွားဆိုးကြီး) တစ်ကောင်သည် တရှူးရှူးမြည်လျက် ထိုလမ်းကျဉ်းသို့ ပြေးဝင်လာ၏။ မယ်ဇယ်ဆရာတော်မှာ လွန်စွာ စိုးရိမ်ကြီးနေ၏။ ဘုန်းတော်ကြီးကား ဣန္ဒြေမပျက် ကြွမြဲ ကြွသွား၏။ အနီးသို့ ရောက်သောအခါ ယင်းနွားသိုး (နွားဆိုး) ကြီးသည် အလိုအလျောက် နောက်သို့ ဆုတ်၍ ရှောင်တိမ်းကွေ့ထွက်သွားလေ၏။ မယ်ဇယ်ဆရာတော်မှာ အံ့ဩမဆုံး ရှိတော့သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၃၂၅၊ ကျိုက်ထို မေဃဝန်ဆရာတော် ဦးတေဇက မိန့်ကြားခဲ့ပါသည်)

## စပါးကြီး မြွေဆိုးကြီးအကြောင်း

ဘုန်းတော်ကြီး ဦးသီလ၏ သီလ၊ သမာဓိ၊ မေတ္တာတော်ကြောင့် မြွေဆိုးများကိုလည်း မေတ္တာဖြင့် အောင်တော်မူကြောင်း အောက်ပါအတိုင်းသိရှိရပါသည်။



ကျိုက်ထိုမြို့နယ် ကျိုက္ကသာရွာ ကော့စံတောရ၌နေခဲ့စဉ် စပါးကြီးမြွေဆိုးကြီး တစ်ကောင်သည် ၁၂ တောင်ခန့်ရှိ၏။ နှာ ၉ ပေါက်ရှိ၏။ လူတို့၏အကြားသို့ တိုး၍ လာလေ၏။ ထိုအခါ ဘုန်းတော်ကြီးက 'ဤနေရာသည် သူတော်ကောင်းများ ကုသိုလ်ပြုရာ တရားအားထုတ်ရာနေရာဖြစ်သည်။ အနှောင့်အယှက်မပြုသင့်'ဟု မိန့်ကြားလိုက်၏။ ယင်း စပါးကြီးမြွေဆိုးကြီးသည် ချက်ချင်း ရုတ်တရက်ထွက်ခွာ သွားလေ၏ ဟုသိရပါသည်။

(ကျမ်းကိုး။ ယင်း စာ၊ ၃၂၅-၃၂၆၊ ကျိုက်ထို ဦးဝဏ္ဏိတ ဘုန်းတော်ကြီးက မိန့်ကြားခဲ့ပါသည်)

## သေနတ်ပြီးသော ဘုန်းတော်ကြီး

ဘုန်းတော်ကြီး ဦးသီလကိုကြည်ညိုသဖြင့် မှတ်မှတ်သားသား ရှိသူများထဲတွင် ဘုန်းတော်ကြီး ဦးသီလ၏ သေနတ်ပြီးပုံကိုလည်း ခေတ်စကားဖြင့်ပြောရလျှင် ပြန်ပြောသင့်ပါသည်။ ရှေးအခါက ပန်ချာပီကုလား စစ်သည်တော်များ၏ သေနတ်များမီးမထွက်ကြောင်း အထောက်အထားများရှိပါသည်။

၁၈၈၅ အေဒီ ၁၈၈၅၊ (၁၂၄၇ ခုနှစ်)တွင် စစ်တောင်း မရမ်းချောင်းဘုန်းကြီးနှင့် ကျောက်ကလာပ် ဘုန်းကြီးတို့သည် ဗိုလ်လုပ်၍ ကျိုက်ထိုနယ်၊ ရွှေကျင်နယ်တို့၌ ထကြွကြကုန်၏။ တစ်နေ့ရွှေကျင်မြို့သို့ ဝင်အစီးတွင် ပန်ချာပီကုလားစစ်သည်များ၏ လက်ချက်ကြောင့် ကိုဘားကြီးကျဆုံး၍ ဆုတ်ခွာထွက်ပြေးကုန်၏။ ထိုအခါ ဘုန်းတော်ကြီးသည် တောအုပ်ရှိ သစ်ပင်တစ်ပင်အောက်၌ရှိနေ၏။ ယင်းစစ်သည်တို့သည် ဘုန်းတော်ကြီးအား မရမ်းချောင်းနှင့် ကျောက်ကလပ် ဘုန်းကြီးများ ဘက်သားထင်ပြီး လေးဘက်လေးတန် ဝိုင်းပြီး သေနတ်ဖြင့်ပစ်ကြ၏။ သေနတ်များကား မီးမထွက်ချေ။ တအံ့တသြ ဖြစ်ကြလျက် အနီးသို့ချဉ်းကပ်လာကြ၏။ ဝိုင်းမေးလျှောက်ထားကြ၏။ ဘုန်းကြီးကောင်းဟု သိ၍ အထူးစိတ်မကောင်းဖြစ်ကြပါကြောင်းဖြင့် တောင်းပန်၍ခြေတော်ကို ဦးခေါင်းဖြင့် ပွတ်လျက် ရှိခိုးဆလံပေးကြ၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၃၂၈- ၃၂၉၊ ရွှေစာပေါင်းတွင် ဆိုပါသည်။)

## လူစကား နားလည်သကဲ့သို့အကြောင်း

ဘုန်းတော်ကြီးဦးသီလ၏ မေတ္တာတော်ကြောင့် တောဆင်ရိုင်းကြီးများကပင် လူစကားကို နားလည်ကြကြောင်း အထောက်အထားများရှာကြံရာ ကျိုက်ထိုမှ ဖြစ်ရပ်မှန်တစ်ခုကို မှတ်သားမိခဲ့ပါသည်။

၁၈၉၆ အလားတူပင် အေဒီ ၁၈၉၆ ခု (၁၂၅၇ ခုနှစ်) လောက်တွင် ကျိုက်ထို အင်းစိုင်တောရ သထုံမြေနီကုန်း တောရ ခရွဲတောင်ပေါ် တောရတို့၌ နေစဉ်ကလည်း ဆွမ်းခံလမ်းတွင် တောဆင်ရိုင်းများနှင့် မကြာခဏ အထက်ပါအတိုင်း တွေ့ခဲ့ရ၏။ ဆင်ရိုင်းများကပင် ရှောင်ပေးကြရ၏။ ကျောင်းဝိုင်း အတွင်း သို့ တောဆင်အုပ်ကြီး ဝင်လာရာ၌လည်း 'သင်တို့မနှောင့်ယှက်ကြနှင့်'ဟု မိန့်တော်မူလိုက်ရာ လူစကားနားလည်သကဲ့သို့ အသာအယာ နောက်ဆုတ်ထွက်ခွာသွားကြသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၃၁၊ ၃၃၂။တကေးရွာ ဦးအုန်း၊ ဦးထွန်းလင်း က ပြောကြားခဲ့ပါသည်။)



## ဆင်မနင်း ကျားမကိုက်သော ဘုန်းတော်ကြီး ဦးသီလ

ဘုန်းတော်ကြီး ဦးသီလ ဆင်မနင်းကျားမကိုက်ကြောင်း လှည်းသမားများက ကိုယ်တွေ့ ပြောကြားကြပါသည်။ ထိုအထောက်အထားကိုလည်း ကျိုက်ထိုအရှေ့ ဘုရားသုံးဆူတောရမှရရှိပါသည်။

တစ်ဖန် ကော့ကဒွတ်ရွာ တောကျောင်း၌နေစဉ် ကျိုက်ထိုမြို့ အရှေ့ဘုရားသုံးဆူတောရမှ ရဟန်းခံကိစ္စအတွက် ညဥ့်အခါ တစ်ပါးတည်းကြွလာ၏။ လမ်းခုလတ် ဇရပ်တစ်ခုတွင် လှည်းသမားများလည်း လှည်းဖြုတ်စခန်းချနေ၏။ ခရီးသွားဒကာတစ်ယောက်သည်ကြုံ၍ သပိတ်ယူလွယ်ကာလိုက်ပါ၏။ ညဥ့်လသာသာ တောလမ်းခရီးတွင်ဖြစ်၏။ တောဆင်အုပ်ကြီးလာနေသည်ကို အဝေးမှပင်မြင်ရ၏။ နောက်ဆုတ်ဖို့ရန် အကြိမ်ကြိမ်လျှောက်၏။ နောက်ဆုံးမရသဖြင့် သပိတ်ပြန်အပ်ပြီးပြေးလေ၏။ အဝေးမှလှမ်းကြည့်လိုက်ရာ ဘုန်းတော်ကြီးသည် ဆင်အုပ်ထဲတွင် နစ်မြုပ်သွားသည်ကိုသာ မြင်လိုက်ရ၏။ လှည်းဝိုင်းသို့ ရောက်သောအခါပြောပြ၏။ ခုလောက်ဆို ဘုန်းတော်ကြီးမှာ အစအနတောင်ရှာရတော့မှာ မဟုတ်ဘူးဟုပြော၏။ လှည်းသမားများက 'သင်ပြောတာ ဘုန်းတော်ကြီး ဦးသီလဖြစ်လိမ့်မယ်၊ အဲဒီဘုန်းတော်ကြီး ဦးသီလဟာ ဆင်မနင်းကျားမကိုက်ဘူး'ဟုပြော၏။ ထိုဒကာလည်း နောက်တစ်နေ့ မကျေနပ်၍ ပြန်လိုက်သွားရာ များစွာအံ့သြ၍ ကန်တော့ပြီးပြန်ခဲ့၏ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၃၂ ၃၃၃။ရှေးစာပောင်းတွင် ဆိုပါသည်။)

## သရဲစီးနေသောဆင်ကြီးနှင့် ဆင်ကျော့မှူးကြီး အကြောင်း

ဘုန်းတော်ကြီး ဦးသီလ၏ ဂုဏ်တော်များကြောင့် မမြင်နိုင်သော နာမ်လောက,ကန့်ခြင့်ယှက်မှုများ ကင်းဝေးရကြောင်းပြောဆိုကြပါသည်။ ကျိုက်ထီးရိုး ဆံတော်ရှင်အနီးတစ်ဝိုက်တွင် ဖြစ်ပျက်ခဲ့သော ဖြစ်ရပ်မှန်တစ်ခုက အံ့သြကြည်ညိုဖွယ်ရာဖြစ်ပါသည်။

တစ်နေ့သ၌ မိုးပေါ်ရွာမှ သက်ငယ်တောင်သို့ ကျိုက်ထီးရိုးလမ်းမှကြွလာ၏။ ပဲခူးပန်းလှိုင်ဆရာဖိုးကလေးလည်း သပိတ်လွယ်၍ပါလာ၏။ လမ်းခုလတ်တွင် ဘုရားဖူးသမားနှင့်ရွာသားများက 'ဒီလမ်းကမကြွပါနှင့်၊ ကျော့မှူးခေါ်တဲ့ဆင်ရိုင်းကြီး တစ်ကောင်လွတ်နေပါတယ်၊ လူမြင်တိုင်း လိုက်ပြီးနင်းသတ်နေတယ်၊ မကြာမီက ရှမ်းကြီးလေးယောက် နင်းသတ်လိုက်လို့ သရဲဖြစ်ပြီး ကျော့မှူးကြီးကိုစီးနေပါတယ်၊ မကြွပါနှင့်ဘုရား'ဟု ဝိုင်းလျှောက်ကြ၏။ လမ်း၌အင်္ဂလိပ်စစ်ဗိုလ်တစ်ယောက်နှင့် ပန်ချာပီသုံးယောက် သေနတ်ကိုင်လျက်တွေ့ပြန်ရာ ဤအတိုင်းတားမြစ်ကြ၏။ ကြွမြဲ ကြွသွား၏။ မကြာမီပက်ပင်းတိုးတော့သည်။ ဆရာဖိုးကလေးကား ဘုန်းတော်ကြီး၏ ဂုဏ်တော်များကို အထူးယုံကြည်၏။ အကြမ်းပြေးလာသော ကျော့မှူးကြီးသည် အနီးသို့ရောက်လျှင်ပင် ဦးခေါင်းငိုက်စိုက်ဖြင့်မြေ၌ လက်မောင်းကြီးနှစ်ဖက်ချကာ အော်ဟစ်နေ၏။ **ထိုအခါ ခမောက်နီ ကိုယ်စီဆောင်းထားသော လူလိုလို ပုဂ္ဂိုလ်သဏ္ဍာန်ကြီး ကျော့မှူးကြီးပေါ်မှ ဆင်းပြေးကြသည်ကို ဆရာဖိုးလေးကိုယ်တိုင်မြင်လိုက်ရ၏။ ပြီးလျှင်ယင်းဆင်ကျော့မှူးကြီးမှာ လမ်းရှောင်ကာ တောထဲသို့ဝင်သွားလေ၏ဟု သိရပါသည်။**

(ကျမ်းကိုး၊ ယင်း စာ ၊၃၃၃၊ ၃၃၄။ကျိုက္ကော် ဦးဘိုးရင်က ပြောကြားပါသည်။)

## မနက်စောစော ကြက်တွေတွန်ဖို့ ဘယ်သူကတိုက်တွန်းသလဲ



ဘုန်းတော်ကြီး ဦးသီလသည် တရားဟောရာစကားပြောရာတွင် လိုရင်းတိုရှင်း ချက်ကျလက်ကျ လျှပ်တစ်ပြက် ကောက်ခါငင်ခါ ထိထိမိမိဟောတတ်သဖြင့် ယခုတိုင် အမှတ်တရဖြစ်ရပ်မှန်များ ရှိနေပါသည်။ အောက်တွင် အထူးအဆန်းဖတ်ကြည့်ပါ။

ဘုန်းတော်ကြီးသည် သထုံမြို့အနီး ကျိုက္ကော်၊ ကင်မွန်းချုံ တံတားဦးတို့၌နေခဲ့စဉ် တစ်နေ့သ၌ ဘုန်းကြီးဦးဓမ္မိသရနှင့်အတူ ဘုန်းကြီးဦးနန္ဒမာလာသည် ကုလားတက်လုပ်ဖို့ သစ်သားရှာရင်း ဘုန်းတော်ကြီးထံရောက်လာကြ၏။

ဘာကိစ္စလာကြသလဲဟု မေးလေသော် - မနက်ဘုရားဝတ်တက်အတွက် ခေါက်ဖို့ရန် ကုလားတက် တစ်ခု အလိုရှိ၍ လာကြောင်း လျှောက်၏။ ဘုန်းကြီးတို့ **မနက်မနက် ထ ထပြီး တွန်တဲ့ ကြက်တွေကို ဘယ်သူ ကုလားတက်ခေါက်ပေးသလဲဟု မိန့်လိုက်ရာ ၂ ပါးလုံး ခေါင်းမထောင်ဝံ့တော့ဘဲ ဦးခေါင်းပေါ် မိုးကြိုးကျသကဲ့သို့ ငါတို့မှာ ရဟန်းများဖြစ်လျက် ကြက်လောက်မှ နိုးကြားခြင်းမရှိ လေတကား' လွန်စွာ ထိတ်လန့်ကုန်၏ဟု သိရပါသည်။**

(ကျမ်းကိုး၊ ယင်း စာ ၊ ၃၃၇၊ ကျိုက်ဒိုး ဦးသောဘိတ က မိန့်ကြားခဲ့ပါသည်။)

## ဂူပြိုကျခြင်း အကြောင်း

ဘုန်းတော်ကြီး ဦးသီလ တရားအားထုတ်လျက်ရှိစဉ် ဂူကြီးပြိုကျသွားသဖြင့် အားလုံးက ထိတ်ထိတ်လန့်လန့်ရှိခဲ့ကြပါသည်။ သို့သော်လည်း ဆရာတော်ဘုရားကြီးကား အကောင်းပကတိ ထိုင်နေသည်ကို အံ့ဖွယ် ဖူးမြော်ခဲ့ရကြောင်း ကြားသိရပါသည်။ ဖြစ်ရပ်မှန်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

ဘုန်းတော်ကြီးသည် ကျိုက်ပဒိုင်နှင့် ဈေးညောင်ပင်အကြားသိမ်ကုန်းတောရှိ ဂူကြီးတစ်ခု၌နေစဉ် တစ်နေ့သ၌ ယင်းဂူကြီးပြိုကျသွား၏။ နွားကျောင်းသားတစ်ဦးက မြင်၍ ရွာနီးချုပ်စပ်သို့ 'ဂူကြီးပြိုကျသွားကြောင်း'ပြောလေ၏။ အထိတ်တလန့် ဝမ်းနည်း ပက်လက် ငိုယိုကာပြေးလာကြ၏။ ရောက်သောအခါ ဘုန်းတော်ကြီးမှာ ငြိမ်သက်စွာ ထိုင်နေသည်ကို မြင်ရဖူးရ၍ စိတ်သက်သာရာ ရသွားကြသည်။ အသက်ကြီး ဒကာ ကြီးများက ဦးဆောင်၍ အနီးကပ်လျှောက်ထားကြ၏။ 'အေး ဂူကြီးပြိုကျသွားပြီး၊ မင်းတို့မြင်တဲ့အတိုင်း ငါတို့ထိုင်နေကျအတိုင်း ထိုင်နေတုန်း အပြင်ဘက်က 'ကယ်တော် မူပါဘုရား၊ တပည့်တော်တို့ကို ကယ်တော်မူပါဘုရား'လို့ အကြိမ်ကြိမ် အော်သံကြီးကြားလို့ ထွက်ပြီးလှည့်ပတ်ကြည့်နေတုန်း ဂူကြီးပြိုကျသွားတယ်'ဟု အမိန့်ရှိဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၃၉၊ ကျိုက်ပဒိုင်သား သထုံ ဦးနန္ဒဝံသက မိန့်ကြားခဲ့ပါသည်။)

## ကျားကြီး ပါးစပ်ထဲကို မီးစဖြင့် ထိုးချင်စိတ်ပေါက်သော ကပ္ပိယကြီး ဦးအာကာ၏အကြောင်း

ဘုန်းတော်ကြီး ဦးသီလနှင့် ကျားများ၊ ဆင်ရိုင်းများ အကြောင်းဆက်ပုံများမှာ အံ့ဖွယ် ကြည်ညိုဖွယ်ရာအတိဖြစ်ပါသည်။ ပဲခူးခရိုင် ဒေးစွန်းပါတောင်တွင် ရှိစဉ်ကာလကပင်လျှင် ကျားဆိုးကြီးများနှင့် စပ်လျဉ်းသော ဖြစ်ရပ်မှန်များ ရှိခဲ့ဖူးပါသည်။ ထိုအချက်ကို ကိုယ်တွေ့မျက်မြင် သိသူများထံမှ ထပ်ဆင့် သိရှိရပါသည်။



ဒေးစွန်ပါ တောရ၌နေစဉ် ကပ္ပိယကြီး ဦးအာကာလည်း ဝတ်ပြုကာအတူလိုက်နေ၏။ ယင်း ဦးအာကာသည် အလွန်ချမ်းသော ဆောင်းအခါဖြစ်၍ မိမိမီးလှုံရန်နှင့် ကျားများ မိမိထံမလာစေရန် မီးထည့်ဖို့ နေ့ခင်းကပင်ထင်းခွေထား၏။ ညဉ့်အခါ မီးများထည့်ကာ လှုံလေ့ရှိ၏။ တစ်နေ့သော် ကျားကြီးတစ်ကောင်သည် မီးဖိုရှိရာသို့ တည့်တည့်ကြီး တိုးဝင်လာ၏။ ဦးအာကာလည်းမပြေးသာ၊ ကျားကြီးမှာလည်း မီးပုံသို့ ထပ်ကာ ဝင်လှုံလိုက်၏။ တဖြည်းဖြည်းဝပ်လျက်မှိန်းနေ၏။ ယင်းမှိန်းနေရင်းမှ အိပ်မောကျပြီး ပါးစပ်ကြီးဟလာ၏။ အထူးကြောက်နေသော ဦးအာကာလည်း စိတ်သက်သာရာ ရလာ၏။ ဒီလိုနှင့် နေ့စဉ်နေ့စဉ် လှုံလာကြ၏။ ယဉ်ပါးလာ၏။ တစ်နေ့သောအခါ ကျားကြီးပါးစပ်အဟောင်းသားနှင့် အိပ်ပျော်သွားခိုက် ဟိုဟိုဒီဒီတွေးယင်း စိတ်ကူးပေါ်လာ၏။ ငါ ဒီမီးစကြီးဖြင့် ကျားကြီး၏ ပါးစပ်ထဲသို့ ထိုးထည့်လိုက်လျှင် ကောင်းမှာပဲဟုစိတ်ကူးလိုက်မိ၏။ ကျားကြီးသည် ရုတ်တရက်ထလိုက်ပြီး မျက်လုံးပြူးကြည့်ကာ ဟိန်းနေတော့၏။ ထိုအခါ ဘုန်းတော်ကြီးက 'ကပ္ပိယ၊ ဘာလို့ မကောင်းကြံပြီး မေတ္တာပျက်ရတာလဲ၊ ကိုယ့်အလုပ်ကိုယ်လုပ်တာမဟုတ်ဘူး၊ တောင်းပန်လိုက်' ဟု စကြႍလျှောက်နေရာမှလှမ်းပြောလိုက်၏။ ကျားကြီးလည်း ပြန်၍ငြိမ်ကျသွား၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၄၅၊ ဘုရားကလေး ဦးလှခင် က ပြောကြားခဲ့ပါသည်။)

၁၉၀၇ အေဒီ ၁၉၀၇၊ ဧပြီလ ၂၈ ရက်၊ တနင်္ဂနွေနေ့ (၁၂၆၉ ခုနှစ် ကဆုန်လပြည့်ကျော် ၃ရက်နေ့) အဝင်သည် ညဉ့် ၂ နာရီတွင် ဇလွန်သင်္ဘောဆိပ်သို့ ဆိုက်ရောက်သည်။ သင်္ဘောမှ ဥဩသံကြားရလျှင် တစ်မြို့လုံးထွက်၍ကြိုကြသည်။ ထိုခေတ်နာမည်ကြီး (ဦးပု)၏ စင်တော်ကြီး ရှုပွဲမှာလည်းကပြခိုက်ဖြစ်၍ ပွဲပင်ဆက်မကနိုင်၊ ရပ်လိုက်ရလေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၅၉၊ ဇလွန် ဒကာ ဒကာမများ ပြောကြားကြပါသည်။)

## ခန္ဓာဝန် စွန့်ခြင်းအကြောင်း

ဘုန်းတော်ကြီး ဦးသီလ ခန္ဓာဝန်ချခြင်းအကြောင်းကို မှတ်တမ်းတွင် ဤသို့တွေ့ရှိရပါသည်။

၁၉၀၇ အေဒီ ၁၉၀၇ ဧပြီလ ၂၉ ရက်၊ တနင်္လာနေ့၊ (၁၂၆၉ ခုနှစ် ကဆုန်လပြည့်ကျော် ၄ ရက် တနင်္လာနေ့ နံနက် ၇ နာရီ တွင် သတိသမ္ပဇည ခန့်တည်ပြည့်ဝသဖြင့် တစ်ချက်မျှ သတိမလစ်ဘဲ ခန္ဓာဝန်ကို အပြီးတိုင် စွန့်တော်မူလေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၆၁၊ ဇလွန်ဒကာ ဒကာမများထံမှ သိရပါသည်။)

## အလောင်းတော်ကို လူခိုးမှာ စိုးရိမ်ခြင်း

အလောင်းတော်ကို ခိုးမည်စိုး၍ ကြေးသေတ္တာကြီးကို အခေါင်းလုပ်ပြီး လူများမမီအောင် အမြင့်၌ ဆွဲထားသည်။ လူလေးယောက်စီ အလှည့်ဖြင့် အစောင့်အမြဲချထားသည်။ အနယ်နယ်မှလူများက အလောင်းဘေးတွင် ဇလွန်သူ ဇလွန်သားတို့အား ထိပါးစောင်းချိတ်၍ ဖွဲ့နွဲ့ပြောဆိုငိုကြရာ 'ဘယ်လိုငိုငို အလောင်းမပေးရပြီးတာပဲ'ဟု မကြားတကြား တီးတိုးပြန်ပြောကြသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊ ၃၆၆၊ ဇလွန် ဒကာ ဒကာမများက ဆိုကြပါသည်။)



## လူတိုင်း မျက်ရည်မဆည်နိုင်သောပွဲကြီး

ဈာပနပွဲကို ထိုနှစ်တပို့တွဲလတွင်ကျင်းပရာ အဆောက်အအုံ အလှူအတန်း လိုလေသေးမရှိ ပြားပန်းခပ်စည်ကားလှသည်။ ဇလွန်သားတို့လည်း ထက်သန်သော သဒ္ဓါတရားကို အစွမ်းကုန် ဖော်ပြခွင့်ရကြသည်။ ပြာသဒ်လောင်တိုက် စသည်များတွင် ဘုန်းတော်ကြီး၏ သာသနာပြုခဲ့သည့် ဘဝ ဖြစ်စဉ်များကို အတ္ထုပ္ပတ္တိအနေ ဆေးရောင်စုံ ပန်းချီကားချပ်များ ရေးဆွဲထားကြသည်။ လူတိုင်းပင် မျက်ရည်မဆည်နိုင်ဖြစ်ကြသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၆၆၊ ၃၆၇၊ ဇလွန် ဒကာ ဒကာမများက ပြောကြားကြပါသည်။)

## နတ်များ ထီးမိုး လိုက်ပါနေပုံကို မြင်ကြရသည်ဆိုခြင်း

အမြင့်တွင်ဆွဲထားသော ကြေးခေါင်းတော် သေတ္တာကြီးအနီးတွင် ဘုန်းတော်ကြီးတစ်ပါး သပိတ်ပိုက်ကာရှေ့မှ ဖြည်းညင်းစွာကြွ၍ နောက်မှ နတ်ဗြဟ္မာလိုလို ပုဂ္ဂိုလ်တစ်ဦးက ထီးမိုးလိုက်ပါ လှည့်လည်နေပုံကို တရိပ်ရိပ်မြင်ကြရသည်။ မကြာခဏ အများပင် မြင်ကြရသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၆၈၊ ၃၆၉၊ ဇလွန် ဒကာ ဒကာမများ က ပြောကြားကြပါသည်။)

## ရုပ်ကလာပ်တော်ကို (၉)လတိုင်တိုင် အပူဇော်ခံထားခြင်း

၁၉၀၇ ဘုန်းတော်ကြီးမှာ အေဒီ ၁၉၀၇၊ ဧပြီလ ၂၉ ရက်၊ (၁၂၆၉ ခုနှစ် ကဆုန်လပြည့်ကျော် ၄ ရက်) တနင်္ဂနွေနေ့ (ကျမ်းကိုး၊ နှစ်တစ်ရာ ပြက္ခဒိန်တွင် တနင်္လာနေ့ဟု တွေ့ရပါသည်။) နံနက် ၇ နာရီအချိန်တွင် လေးလံသော ခန္ဓာဝန်ကြီးကို အပြီးအပိုင် စွန့်တော်မူသွားပြီဖြစ်၏။

၁၉၀၈ ယင်း ခန္ဓာဝန် (အလောင်းတော်)ကြီးကို ယင်း အေဒီ ၁၉၀၈ ခု မတ်လ ၁၉ ရက်၊ ကြာသပတေးနေ့ (၁၂၆၉ ခုနှစ် တပို့တွဲလပြည့်ကျော် ၃ ရက်နေ့) အထိ ၉ လတိုင်တိုင် မီးသင်္ဂြိုဟ်မှုမပြု၊ အပူဇော်ခံထားပြီးမှ အဘိမပူဇာ အဂ္ဂိဈာပန (မီးသင်္ဂြိုဟ်)ပွဲ သိုက်မြိုက်ကြီးကျယ်စွာကျင်းပလေ၏။ ရပ်ဝေးရပ်နီးအသီးသီးမှ ရဟန်း၊ ရှင်၊ လူ၊ တင်းကြမ်းပြည့်နှက်နေအောင် စည်ကား၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၇၁၊ ဟသ်ာတသား၊ တော်ပသီဆရာတော် က မိန့်တော်မူပါသည်။)

## ထူးခြားသော ရုပ်ကလာပ်တော်

ဘုန်းတော်ကြီး၏ အလောင်းတော်မှာ ကဆုန်လမှ တပို့တွဲလအထိ ၉ လ ထားသော်လည်း မသိုးမသန့်ဖောက်ပြန်သော အနံ့များ လုံးဝန်ခြင်းမရှိ၊ ဘုန်းတော်ကြီး၏ ရုပ်ပုံတော် အခြေအနေမှာလည်း မည်သို့မျှမပျက်၊ မပြောင်းလဲဘဲ ပကတိတည်ရှိလေ၏။ ရွှေများမချမီကဆိုလျှင် ကျိန်းစက်နေသကဲ့သို့သာ ဖူးမြင်ကြရ၏။ အနှစ်ပေါင်း ၈၄ နှစ်ကဖြစ်၍ ယခုခေတ်ကဲ့သို့ မပုပ်/မပျက်စေနိုင်သော ခေတ်မီတားဆေး ထိန်းဆေးများမပေါ်သေး၊ မရှိသေး။ မည်သို့မျှလည်း ပြုပြင်ခြင်း၊ တားဆီးခြင်း စသည်မရှိ၊ ဇလွန်မြို့ငယ် တောသဘာဝအတိုင်း ကြည်ညိုခံခြင်းသာဖြစ်၍ ဤမျှဟိုးဟိုးကျော်အောင် တအံ့တဩဖြစ်ကြရ၏။ (ဘုန်းကြီးသေက မီးရှို့ကြ) ရှေးထုံးစံအတိုင်း မီးရှို့လိုက်ကြ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၇၁၊ ၃၇၂ သဟ်ာတသား၊ တော်ပသီဆရာတော် က မိန့်တော်မူပါသည်။)



## ပြာကို အလုအယက် ယူကြသဖြင့် မြေမှာ တွင်းကြီးဖြစ်သွားခြင်း

ဘုန်းတော်ကြီး အလောင်းတော်မှာ ဤသို့ ၉ လ ထားသော်လည်း အူနံ့ နံ့ခြင်းမရှိ။ ပုံပန်းအခြေအနေမပျက်။ ပကတိကဲ့သို့ တည်ရှိလျက်။ မီးတင်လှူ သင်္ဂြိုဟ်ပြီးနောက်တွင်လည်း နံ့သာဖြူသနပ်ခါးတုံးများ လှည်း ၅ စီးတိုက်ကျော်ကျော် ကျန်နေသေးသည်။ ဈာပနအဖွဲ့မှ အရိုးပြာများကို သံသေတ္တာဖြင့်ထည့်၍ သိမ်းဆည်းပြီးနောက် ပရိသတ်တို့အား ယူလိုသူယူရန်ခွင့်ပြုသည်နှင့် တစ်ပြိုင်နက်သူထက်ငါယူကြရာ မီးသွေးရော ရာဇမတ်ဝါးများပါကုန်၍ မြေကြီးပင် တွင်းကြီးတစ်ခု ဖြစ်ကျန်ရစ်လေသည်ဟုသိရပါသည်။

(ကျမ်းကိုး။ ယင်း စာ ၊၃၇၂၊ ၃၇၃၊ ဇလွန် ဒကာ ဒကာမများ ပြောကြားကြပါသည်။)

## အရိုးပြာများမှ ဓာတ်တော်များ ကွန့်မြူးခြင်း

အရိုးပြာများ ရသူများသည် ရေမွှေးပုလင်း၌ထည့်၍ ကိုးကွယ်ကြရာ ပြာမှ အလုံးကလေးများစွာဖြစ်လာကာ တက်ချည်ဆင်းချည်ဖြင့် (အံ့သြဘနန်း အဆန်းတကြယ်) ဓာတ်တော်များကွန့်မြူးနေသည်ကို ဝမ်းသာအားရ ဖူးတွေ့ကြရသည်။ အရိုးပြာများကို ဈာပနအဖွဲ့က မီးခံသေတ္တာများဖြင့် အထပ်ထပ် သော့ခတ်၍ ကြပ်ကြပ်မတ်မတ် စောင့်ရှောက်ထားကြသည်။ အသက်နှင့်လဲ၍ ထိန်းသိမ်းထားကြသည်ဟု သိရပါသည်။

(ကျမ်းကိုး။ ယင်း စာ ၊၃၇၃၊ ဇလွန် ဒကာ ဒကာမများ ထံမှ သိရပါသည်။)

## မသိသူများ နောင်တရကြခြင်း

နောင်ဖွင့်၍ ကြည့်ကြသောအခါ ယင်း သေတ္တာထဲမှ ပြာများသည် ပြာများမဟုတ်တော့ဘဲ အလုံးအသွယ်သွယ် ( ကြီး လတ် ငယ် ) ဓာတ်တော်များဖြစ်၍နေသည်ကို အံ့အားသင့်စွာ ဖူးတွေ့ကြရသည်။ ထိုအခါ လက်ပွန်းတတီးနေခွင့်ရကြသူများပင် ဤမျှမြင့်မြတ်သော ပုဂ္ဂိုလ်ထူးကြီးဟု မထင်မိဘဲ ပေါ့ပေါ့ဆဆ နေမိခဲ့သူအချို့ နောင်တကြီးစွာ ဖြစ်ကြရသည်ဟု သိရပါသည်။

(ကျမ်းကိုး။ ယင်း စာ ၊၃၇၄၊ ဇလွန် ဒကာ ဒကာမများ က ပြောကြားကြပါသည်။)

## ပြန်စည်ကားခြင်းအကြောင်း

ဈာပနပွဲကြီး ပြီးသွားသော်လည်း ဘုန်းတော်ကြီး၏ သင်္ဂြိုဟ်ရာ သချိုင်းတော်တွင် ညဥ့်ဘက် ညဥ့်ဘက်မှာ(မီးလုံးကြီးများ မကြာခဏ ပျံတက်လျက်)ဓာတ်တော်တွေ မြူးကြွကြလေသည်။ ယင်းအကြောင်းများ ကျော်ကြားသော တစ်နေ့လုံး ပွဲကြီးဖြစ်နေတော့သည်။ ဆွမ်းဆန်စိမ်းလောင်းပွဲကြီးများ လုပ်ကြသေးသည်။ လှည်းပေါင်းတစ်ထောင်ကျော် အရပ်ရပ်မှလာရောက်ပူဇော်ကြသဖြင့် ဈာပနပွဲတုန်းကအလား တစ်မျိုး သာယာစည်ကားနေပြန်သည်ဟုသိရပါသည်။

(ကျမ်းကိုး။ ယင်း စာ ၊၃၇၆၊ ဇလွန် ဒကာ ဒကာမများက ပြောကြားကြပါသည်။)

## ဓာတ်တော်များ ငုပ်ချည်ပေါ်ချည်အကြောင်း

ထိုဈာပနပွဲ ပြုရာနေရာ၌ ယင်းဓာတ်တော်များ ဌာပနာ၍ သဲပုံစေတီ တည်ပေးကြပြန်သည်။ ထိုသဲပုံစေတီမှလည်း ညဥ့်ဘက်တွင် မီးလုံးကြီးများ ပျံကြွကွန့်မြူးနေသည်ကို မကြာ



ခဏ တွေ့ကြရပြန်သည်။ သဲပုံစေတီအနီးမှ ပြာနှင့်ရောနေသော သဲများကို ရေဖန်ခွက်၌ထည့် လျှင် သဘော်စေ့ခန့် ပုလဲရောင်အလုံးကလေးများ ငုပ်ချည်ပေါ်ချည်ဖြစ်ကာ မြူးကြွနေသည် ကိုလည်း တွေ့ကြရပြန်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၇၆၊ ဇလွန် ဒကာ ဒကာမများ ကပြောကြားကြပါသည်။)

## သဲတောင်သုံးဆယ်စေတီအကြောင်း

ဤကဲ့သို့ အလှူအတန်း အကျွေးအမွေးများနှင့် ဓာတ်တော်ကောက်သူများ ဆက်လက် စည်ကား နေ၏။ ကဆုန် နယုန် လှည်းလမ်းပိတ်၍ လယ်လုပ်ငန်းများ စမှသာ လူစဲပေတော့သည်။ ထိုသဲပုံစေတီ နေရာ၌ ဉာဏ်တော် သံတောင် သုံးဆယ်ရှိ အရိုးဓာတ်စေတီ (ယင်း သဲပုံစေတီကို ငုံ၍) ဆက်လက်တည် ထားကိုးကွယ်ကြသည်။ ယနေ့အထိ ထင်ရှားစွာတည်ရှိလေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၊၃၇၆၊ ဇလွန်ဒကာ ဒကာမများက ပြောကြားကြပါသည်။)

## စျာန် အဘိညာဉ်ရ ရဟန္တာကြီးဟု ဆုံးဖြတ်ခြင်း

မြန်မာနိုင်ငံ ပဋိပတ္တိသာသနာဝင် ပဲခူးတောရ ဘုန်းတော်ကြီး ဦးသီလအား ဤသို့ဓာတ်တော်များ ထင်ရှားစွာကျသည်ကိုထောက်ဆ၍ သုက္ခဝိပဿကရဟန္တာမျှသာ မဟုတ်တန်ရာမဟုတ်နိုင်ပါ။ စျာန် အဘိညာဉ်ရသော ဓိဏာသဝ(ရဟန္တာ)အစစ် ပုဂ္ဂိုလ်ထူးကြီးဖြစ်ကြောင်း၊ မမှိတ်မသုန် ယုံကြည်ဝမ်း မြောက်ထိုက်လှပေစွဟုရှေးရှေးသော ဘုန်းတော်ကြီး အတ္တုပ္ပတ္တိရေး ဆရာတော်ဘုရားကြီးများ၏ ဆုံးဖြတ်ချက်ကို အားလုံးထောက်ခံထား၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၊၄၀၃၊ ၄၀၄၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ - ၁၉၈ တွင် မှတ်တမ်း တင်ခဲ့ပါသည်။ ဓမ္မာစရိယဦးဌေးလှိုင် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ ခု၊ မေလ နဝမအကြိမ်၊ စာ - ၂၃၉- ၂၄၂ ၊ ၁၉၅၉ ခုနှစ် ဒုတိယအကြိမ် ဟံသာဝတီတိုက်ထုတ် ဘုန်းတော်ကြီး ဦးသီလ ထေရုပ္ပတ္တိ၌ အကျယ်ဖတ်ပါဟုပါရှိပါသည်။ ဆရာကြီး ဦးဌေးလှိုင် သည် အဂ္ဂမဟာပဏ္ဍိတ ညောင်လေးပင်တောရဆရာတော် ဦးအရိယ၏ ကျမ်းကို အားကိုး ၍ ရေးထားသည်ဟု ဆိုပါသည်။ ကြခတ်ဝိုင်းဆရာတော်ကြီး ဦးဇောတိပါလ၏ ဦးသီလ ဗိမာန်တော်သမိုင်းတွင် အကျယ်ဖတ်လိုသူများအတွက် အဂ္ဂမဟာပဏ္ဍိတ ညောင်လေးပင် တောရဆရာတော် ဦးအရိယ၏ ဘုန်းတော်ကြီး ဦးသီလ ထေရုပ္ပတ္တိကိုပင် ညွှန်းထားပါ သည်။ စာ - ၃၇၇ ကို ကြည့်ပါ။ကျွန်ုပ်ကား ကြခတ်ဝိုင်း ဆရာတော် ဦးဇောတိပါလ ရေးသားပြုစုသော ပဲခူးတောရ အရညဝါသီ ဦးသီလဗိမာန်တော်သမိုင်းနှင့် ဦးသီလ ထေရုပ္ပတ္တိဝိဘာဝနိကျမ်း ၁၉၈၂ ခု၊ ဇူလိုင်လထုတ်ကိုပင် ကိုးကား၍ မှတ်စုထုတ် ကောက်နုတ်တင်ပြပါသည်။ ကြည်ညိုနိုင်ကြပါစေသတည်း။ အကျယ်အပွား ဆက်လက် ဖတ်ရှုနိုင်ကြပါစေသတည်း။)

## လူမသိသေးသော သဃ်န်းကျွန်းဘူတာသမိုင်းအစနှင့် ရဟန္တာဦးသီလ

ရန်ကုန်မြို့ သင်္ဃန်းကျွန်းမြို့ နယ် သင်္ဃန်းကျွန်းဘူတာ၏ သမိုင်းအစပင်ဖြစ်ပါသည်။ အလွန် ကြီးကျယ်သော ကိစ္စကားမဟုတ်ပါ။ သို့သော် ဘုန်းတော်ကြီးဦးသီလနှင့်ပတ်သက်နေသဖြင့် ဘုန်းတော်ကြီး ဦးသီလ၏ မဟာထေရုပ္ပတ္တိကထာကို ဖြည့်စွက်ခြင်းသာဖြစ်ပါ၏။ ဤသို့ ကုသိုလ်ယူရန်လည်းရည်ရွယ် ပါ၏။



သမိုင်းအစတွင် ကျိုက်ထိုက စရမည်ဖြစ်ပါသည်။ ထိုအခါ ကျိုက္ကစံ ရွှေကျောင်တိုက်ကြီး၏ သမိုင်းအစကိုလည်း တွေ့ရပါလိမ့်မည်။ ၎င်းအပြင် ဘုန်းတော်ကြီး ဦးသီလတည်းဟူသော ရဟန္တာကိုယ်တော်မြတ်ကြီး၏ ထူးခြားဆန်းကြယ် အံ့ဖွယ်ဖြစ်ရပ်များလည်း တစေ့တစောင်းပေါ်လာမည်ဖြစ်ပါသည်။ တစ်ချက်ခုတ်လျှင် သုံးချက်ပြတ်ပါ၏။ ကဲ ဇာတ်လမ်းစပါစို့။

ဇာတ်လမ်းကဤသို့ဖြစ်ပါ၏။ ထိုစဉ်က ဘုန်းတော်ကြီး ဦးသီလသည် ကျိုက်ထိုမြို့ ဆိတ်ဖူးတောင်တောရတွင် သီတင်းသုံးနေထိုင်တော်မူ၏။ ထိုအခိုက်တွင် ဝက်ထောင်မှုး ကိုထွားနှင့်မဖော့တို့ကကိုးကွယ်၏။ ကိုးကွယ်သည်မှစ၍ ဝက် မသတ်တော့။ ဘုန်းတော်ကြီးကို အရပ်တစ်ပါးသို့ မကြွစေလိုသည့်အတွက် ဘုန်းတော်ကြီး အရပ်တစ်ပါးသို့ ကြွသွားပါလျှင် တပည့်တော် ဝက်သတ်မည်ဟုလျှောက်၏။ ထို့နောက် ဘုန်းတော်ကြီးက တရားနှင့် ချွေချွတ်ဆုံးမသောအခါ ဝက်မသတ်တော့ဘဲ တရားအားထုတ်ရင်းပင် စီးပွားများသည် ဒီရေကဲ့သို့ တစ်ဟုန်တည်းတိုးတက်လာ၏။ဘုန်းတော်ကြီး၏အဘွား 'မယ်ကန်ကြီး'သည် ဘောက်ထော်မှာနေ၏။ ဘုန်းတော်ကြီးသည် ထိုအဘွားကြီးကို တရားမေ့ဆုံးမဟောပြောရင်း တစ်ခါတရံလာရောက်၍ ခြံထဲမှာတရားအားထုတ်တတ်၏။ ရန်ကုန်မြို့နေ အကြည်တော်ကိုသာမှိုက ဘုန်းတော်ကြီး ဦးသီလနှင့် ဝက်ထောင်မှုး ကိုထွားအကြောင်းကို ပြည်ကြီးမဏ္ဍိုင် စာပုံနှိပ်တိုက်ပိုင်ရှင် ပသီဘာသာဝင် ကိုငြိမ်းကို ပြောပြရာ ကိုငြိမ်းက ဘုန်းတော်ကြီးကိုပင့်ပေးပါ ကျောင်းဆောက်ပါမည်၊ ပင့်၍မရပါက မိမိပသီဘာသာကိုစွန့်၍ ဗုဒ္ဓဘာသာသို့ ဝင်ပါမည်ဟု ဝန်ခံကတိပြုသောကြောင့် အကြည်တော်ကိုသာမှိုက ဘုန်းတော်ကြီးကို ပင့်လျှောက်ပေးရာ ဘုန်းတော်ကြီးက တစ်ဥတုနေရန် တာဝန်ခံလိုက်၏။

၁၉၀၀ ထိုအခါ ကျိုက္ကစံ ရွှေကျောင်တိုက် အမည်မရသေးမီနေရာမြေ၌ ပုဇွန်တောင် ကိုနော်က ပုပ္ပါရုံကျောင်းကို ဆောက်၏။ ရေကျော် ကိုရွှေဘက ဝေဇယန္တာကျောင်းကို ဆောက်၏။ ပုဇွန်တောင် ကိုရွှေနော်က မှန်ကျောင်းကို ဆောက်၏။ တိုးချောင်ကြီးရွာက မပုက မွှောရုံကျောင်းကိုဆောက်၏။ နာမည်ခံ၍ ပင့်သော ပသီဘာသာဝင် ကိုငြိမ်းက အုတ်တိုက်ဆောက်၏။ ၎င်းအုတ်တိုက်၏တောင်ဘက်၌ မန်ကျည်းတန်း မအေးက စကြံဆောက်၏။ ၎င်းစကြံ၏ တောင်ဘက်၌ ပန်းထိမ်တန်း ကိုဘိုးလုံးက ကုဋီဆောက်၏။ ပန်းထိမ်တန်း ကိုဘိုးကင်းက ဝါးကျောင်းကလေးဆောက်၏။ ၎င်းအဆောက်အဦများ ၁၂၆၁ ခုနှစ်မှာ ဆောက်ပြီးမှ ၁၂၆၂ ခုနှစ်မှာ ဘုန်းတော်ကြီးကို ပင့်ရာ တစ်ဥတု တာဝန်ခံ၍ ကြွလာသီတင်းသုံးရာတွင် လာရောက်ဖူးမြော်ကြသော ပရိသတ်များမှာ ဘုရားပွဲတော်တမျှ စည်ကားလှ၏။ ကျောင်းတိုက်၏ ပတ်ဝန်းကျင် ဘုရားဝင်းနှင့် သရက်၊ မရန်း၊ ပိန္နဲခြံကြီးတို့အတွင်း၌ ပရိသတ်များ၊ ဈေးသည်များ ထပ်ထပ်ကျမ်း ပြည့်ကျပ်နေ၏။အထူးသဖြင့် ပန်းဖယောင်းတိုင်သည်များ များပြားလှ၏။ ဘုန်းတော်ကြီးကို ကန်တော့ကြသည်မှာ ပန်းဖယောင်းတိုင်သာ များသဖြင့် ပန်း ဖယောင်းတိုင်များ ရောင်းမလောက်အောင်ရှိ၏။ မော်တော်ကားမပေါ်မီ ထိုခေတ်က အရပ် ထက်ဝန်းကျင်မှ ဆွမ်းလောင်းလာကြသော လှည်းဝိုင်းကြီးမှာ ကျောင်းတိုက် ပတ်ဝန်းကျင်၌ပြည့်ကြပ်နေ၏။ အင်္ဂလိပ်လူမျိုး ခရစ်ယာန်ဘာသာဝင် မီးရထားမင်းကြီးက ဦးသီလထံ ခရစ်ယန်ဘာသာကိုစွန့်၍ ဗုဒ္ဓဘာသာသို့ ဝင်ပြီးလျှင် ကျောင်းတိုက်သံဃာများ ရန်ကုန်မြို့တွင်းသို့ ဆွမ်းခံရန်နှင့် ဘုန်းတော်ကြီးထံ အဖူး



မြော်လာကြသော ပရိသတ်များ အသွားအလာလွယ်ကူစေရန် သယ်န်းကျွန်းဘူတာရုံကို ဖွင့်ပေး၏။ ထိုအချိန်က ရန်ကုန်ဆင်ခြေဖုံး လော်ကယ်ရထားများမဖွင့်သေး၊ မင်္ဂလာဒုံ မီးရထားလမ်းကိုပင် မဖောက်ရသေး။ ထိုအကြောင်းကို အသျှင်လက္ခဏ စီရင်သည့် ကျိုက္ကစံဆံတော်ရှင် သမိုင်းသစ်တွင်ကြည့်ပါ။

ဤ၍ ဤမျှ ဖတ်ရှုမှုနှင့်ပင် သယ်န်းကျွန်းဘူတာကြီးသည် အဘယ်ကြောင့် ပေါ်လာရကြောင်း ပေါ်လွင်ထင်ရှားလောက်သည်ဖြစ်ပါသည်။ ထိုဘူတာကြီး ပေါ်လာ ပုံမှာ ရဟန္တာဘုန်းတော်ကြီးဦးသီလကို ပူဇော်လို၍မျှသာဖြစ်ကြောင်း သိသာလောက်ပါ သည်။

၎င်းအပြင် အခြားအကြောင်းတစ်ခုမှာလည်း အင်္ဂလိပ်လူမျိုး ခရစ်ယာန်ဘာ သာဝင် မီးရထားမင်းကြီးသည်၊ ခရစ်ယာန်ဘာသာကို စွန့်ပြီးလျှင် ဗုဒ္ဓဘာသာသို့ ဝင်ရောက်လာကြောင်းလည်း တစ်ပြိုင်တည်းထင်ရှားလောက်ပါသည်။

၎င်းအပြင် ဗဟုသုတတစ်ချက်မှာ ထိုခေတ်က မော်တော်ကား မပေါ်သေး ကြောင်းပင်ဖြစ်ပါသည်။ ၎င်းအပြင် အခြားအကြောင်းတစ်ချက်မှာ ရန်ကုန်မြို့တွင်း ဆင်ခြေဖုံး လော်ကယ်ရထားများ မဖွင့်သေးကြောင်း ဗဟုသုတတစ်ချက်ဖြစ်ပါသည်။ ၎င်းအပြင် အခြားဗဟုတသုတ တစ်ချက်မှာ မင်္ဂလာဒုံ မီးရထားလမ်းကိုပင် မဖောက်ရ သေးဟူသော အချက်ပင်ဖြစ်ပါသည်။

၁၉၀၀ ထိုအချိန်အခါသည် ၁၂၆၂ ခုနှစ်ဟု ဆိုသဖြင့် ခရစ်နှစ် ၁၉၀၀ ပြည့်ကာလ ဖြစ်ပါသည်။ ဤသို့အားဖြင့် မီးရထား၏ သမိုင်းအသစ်လည်း ဖြည့်စွက်ပေးရာ ရောက်ပါ၏။ ၎င်းအပြင် ရဟန္တာဘုန်းတော်ကြီး ဦးသီလ၏ ဂုဏ်ရည်ထူးများသည် လည်း ပိုမို၍ကြည်ညိုဖွယ်ရာဖြစ်လာပါသည်။

ဤတွင် တစ်ပြိုင်တည်း ပြောပြလိုသည်မှာ ထိုနှစ် ထိုကာလကပင်လျှင် ကျိုက္ကစံရွှေကျောင်းတိုက်ကြီး သည်လည်း ထိုနှစ်ထိုကာလမှာပင် စတင်ပေါ်ပေါက်လာခြင်းဖြစ်ပါသည်။ ထိုကြောင့် ကျိုက္ကစံရွှေကျောင် တိုက်ကြီး၏ သက်တမ်းသည်လည်း နှစ်တစ်ရာပြည့်ကို ကျော်လွန်လျက် ၁၀၇ နှစ်ပင်လျှင် ရှိပြီးဖြစ်ကြောင်း ထပ်လောင်းပြောကြားလိုပါသည်။

အထူးသဖြင့် ပြောကြားလိုသည်မှာ ပဲခူးမြို့ ဘုရားလမ်း ဒေါ်မြ၏ မြေး ဦးမောင်လေးထံမှ ရရှိသော အလွန်ရှားပါးသည့် ဓာတ်ပုံတစ်ပုံအကြောင်းပင် ဖြစ်ပါသည်။ ထိုပုံမှာ ရပုံရနည်းကလည်း အလွန်ထူးဆန်း၏။ ၎င်းအပြင် ရဟန္တာ ဘုန်းတော်ကြီး ဦးသီလ၏ မူလသဘာဝ မူရင်း ဓာတ်ပုံအတိုင်း ဖြစ်သဖြင့် အလွန် ထူးခြားလှပါသည်။ ထိုပုံကို ယခု ပူးတွဲတင်ပြပါသည်။ ဓာတ်ပုံရပုံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

ပဲခူး တောရဘုန်းတော်ကြီး ဦးသီလ၏ သဘာဝ မူရင်းဓာတ်ပုံပင်ဖြစ်သည်။ ဘုရားကြီး နှင့် ပဲခူးအကြား ရွှေလှေ့ရွာအနီးအနား၌ မန္တလေးမြို့မှ တအားစုန်ဆင်းလာသော မီးရထားကြီးရပ်သွားစဉ် (ဘုန်းတော်ကြီး၏ သီလဂုဏ်ကြောင့် မီးရထားကြီးတောင် ရပ်သွားတယ်)စသည့် ပဲခူးမြို့ပေါ်တွင် တစ်မုဟုတ်ချင်းပို၍ သတင်းကြီးသွားသည်။ ထို့ကြောင့် ဘုန်းတော်ကြီး၏ နှမအရင်း(ဘုရားကြီးမြို့ ဆန်စက်ပိုင်ရှင်၊ တန်ဆောင်း အမ ဒေါ်မြ၏မိခင်)ဒေါ်သူဇာကိုယ်တိုင် နှောင်းခေတ် လူများအတွက် အမှတ်တရ ကုသိုလ်တိုးပွား အကျိုးများစေရန် ဓာတ်ပုံဆရာကိုခေါ်၍ ဘုန်းတော်ကြီးသီတင်းသုံးရာ



ပဲခူးအနောက်တောသို့ မရအရလိုက်ရှာလျက် ဆွမ်းခံရာမှအပြန်လမ်းမှာပင် "အရှင်ဘုရား၊ ခေတ္တလျှောက်ထားပါရစေ (ခင်းထားသော မျက်နှာသုတ်ပဝါကို ထိုးပြလျက် ဒီမှာထိုင်တော်မူပါ)ဟု လျှောက်ထား၍ တစ်ဖက်မှာ သပိတ်နှင့် တစ်ဖက်မှာ ယပ်ကိုချလျက် ထိုင်လိုက်စဉ် အမှတ်တမဲ့ လျှို့ဝှက်ခေါ်လာသော ဓာတ်ပုံဆရာက ရသလိုရိုက်ထားလိုက်ရသည်ဟု ဖတ်ရှုရပါသည်။ အကျယ်ကို -

(ကျမ်းကိုး၊ ကြခတ်ဝိုင်းဆရာတော် ဦးဇောတိပါလ ရေးသားပြုစုသော ပဲခူးတောရ အရညဝါသီ ဦးသီလ ဗိမာန်တော်သမိုင်းနှင့် ဦးသီလထေရုပ္ပတ္တိဝိဘာဝနီ ကျမ်း ၁၉၈၂ ခု၊ ဇူလိုင်လထုတ်ကို ဖတ်ကြည့်လျှင် သိရပါလိမ့်မည်။ ဆက်လက်ဖတ်ရှုပါ။)

# အဝိုင်းမင်းကျောင်းဆရာတော်

**အေဒီ ၁၈၃၄ – (၁၁၉၆ – )**





အဝိုင်းမင်းကျောင်းဆရာတော်နှင့်စပ်လျဉ်း၍ အနည်းငယ်မျှသာတွေ့ရှိရပါသည်။ သို့သော် ပရိတ်တော်ရွတ်သောအခါ ရေတွင်းမှာ ရေများလျှံကျခြင်းစသည့် အံ့ဖွယ်ထူးများနှင့်တကွ ဖြစ်ရပ်ဆန်းများ ရှိခဲ့ဖူးသဖြင့် လွန်စွာကြည်ညိုဖွယ်ရာဖြစ်ပါသည်။

## ပရိတ်တန်ခိုးကြောင့်များ ရေတွင်းထဲကရေများ လျှံ၍ကျလာခြင်း ထူးခြားချက်

> အဝိုင်းမင်းကျောင်းဆရာတော်ဘုရားသည် ပရိတ်ရွတ်တော်မူသောအခါများတွင် ကျောင်းရှေ့အနီးအနားမှာ ရေတွင်းထဲကရေများသည် ရေတွင်းပေါ်သို့ မြင့်တက်လာရုံမျှသာမက လျှံ၍ပင်ကျကြောင်းသိရှိရပါသည်။ ထိုအချက်ကို ယခုလက်ရှိ ကျောင်းထိုင်ဆရာတော် ဦးအဂ္ဂဝံသကိုယ်တော်တိုင် ငယ်စဉ်က ကိုယ်တွေ့ဖြစ်ခဲ့ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ဦးခင်မောင်သန်း၊ အမက ပခန်းတန်း၊ နက္ခတ္တရောင်ခြည်၊ ၁၉၉၉ ခု၊ ဇူလိုင်လ စာ ၄၆ )

## ပရိတ်ရေလျှံတွင်း

ထိုရေတွင်းကိုလည်း ပရိတ်ရေလျှံတွင်းဟူ၍ ခေါ်ဝေါ်ခဲ့ကြပါသည်။ ယခုအခါတွင် ရေတွင်းကား တိမ်ကောသွားပြီးဖြစ်ပါသည်။ မြေနေရာကား ကျန်ပါသေးသည်ဟုသိရပါသည်။

> ထိုအဝိုင်းမင်းကျောင်း ဆရာတော်ဘုရားကြီးကို မင်းတုန်းမင်းတရားကြီး ကိုယ်တော်တိုင်က ကုမာရလင်္ကာရ မဟာဓမ္မရာဇဂုရု ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းခဲ့ကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ ယင်း၊ စာ ၄၆)

အဝိုင်းမင်းကျောင်းဆရာတော်သည် ဟင်္သာတခရိုင်၊ ဟင်္သာတမြို့၊ ညောင်ပင်ရပ် အဝိုင်းမင်းကျောင်းတွင် သီတင်းသုံးတော်မူခဲ့သဖြင့် အဝိုင်းမင်းကျောင်းဆရာတော်ဟု အမည်တော်တွင်ခဲ့ကြောင်း သိရှိရပါသည်။ အဝိုင်းမင်းကျောင်း ဆရာတော်ဘုရားကြီး၏ ဘွဲ့တော်မှာ ဦးပညာဇောတဖြစ်ပါသည်။

> မင်းမျိုးမင်းနွယ်က ဆင်းသက်လာတာမို့ မင်းကျောင်းဆရာတော် ဦးပညာဇောတဟူ၍ ဖြစ်ပေါ်လာခဲ့ကြောင်း၊ ထို့ကြောင့် မင်းကျောင်းဟူ၍လည်းကောင်း၊ မင်းကျောင်းဆရာတော်ဟူ၍လည်းကောင်း၊ ခေါ်ဝေါ်ကြောင်း တွေ့ရှိရပါသည်။

(ကျမ်းကိုး။ ယင်း၊ စာ ၄၆ )

## မင်းတုန်းမင်းတရားကြီး လှူခဲ့သော ဘွဲ့တံဆိပ်တော်

မင်းကျောင်းဆရာတော် ဦးပညာဇောတကို မင်းတုန်းမင်းတရားကိုယ်တော်တိုင် လှူဒါန်းခဲ့သည့် ဘွဲ့တံဆိပ်တော်များတို့ကို ယနေ့ထက်တိုင် မင်းကျောင်းတွင် တွေ့ရှိနိုင်ပါသေးသည်။ တံဆိပ်တုံးများမှာ သံထည်ဖြင့် ပြုလုပ်ထားကြသည်။ ၎င်းနောက် မြန်မာတို့ ထုံးစံအတိုင်း အကြည်အညိုလွန်ကဲကာ ရွှေချထားကြသည်။ ထို့ကြောင့်လည်း အချို့အချို့တို့ကို စာတွေဖတ်မရ၊ အတော်ကလေး သတိထားကြည့်ရပါသည်။ သို့သော်လည်း ကံကောင်းသဖြင့် ဘွဲ့တံဆိပ်တော်များကို ထင်ရှားစွာ ဖတ်ရှုရကြောင်း တွေ့ရှိရပါသည်။ ဘွဲ့တော်ပါသော တံဆိပ်တုံးတစ်ခုနှင့် ခြင်္သေ့ပုံပါသော တံဆိပ်တုံးတစ်ခု တို့ကို ယနေ့တိုင်တွေ့နိုင်ပါသေးသည်။

မင်းတုန်းမင်း ဆက်ကပ်ခဲ့သော ဘွဲ့တံဆိပ်တော်များမှာ ရာဇိန္ဒာ လင်္ကာရ မဟာ



ဓမ္မရာဇဂုရုတံဆိပ်တော်နှင့် ရာဇိန္ဒာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်တို့ဖြစ်ကြကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၇)

## နဂါးနှစ်ကောင် ပလ္လင်တော်နှင့် သလွန်တော်

၎င်းအပြင် မင်းတုန်းမင်းတရားကြီး လှူဒါန်းခဲ့သော ပလ္လင်တော်နှင့် သလွန်တော်ကိုလည်း ဟသ်ာတမြို့ မင်းကျောင်းတွင် ယနေ့တိုင်တွေ့နိုင်ပါသေးသည်။

ပလ္လင်တော်မှ လက်ရမ်းတွင် နဂါးနှစ်ကောင်တို့က လက်ဝဲလက်ယာရံထားကြောင်း တွေ့ရပါသည်။ ပလ္လင်တော်၏ နောက်မှီတွင် ဝန်ရုပ်ပုံရှိ၏။ အပေါ်ဘက်တွင် ဒေါင်းရုပ်ရှိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၇)

၎င်းအပြင် ရှေးဟောင်းဘုရားတစ်ဆူကိုလည်း ဖူးတွေ့ရပါသေးသည်။

## နှစ် ၃၀၀ ကျော်က ဖောဓိသားဘုရား

၎င်းအပြင် ဒက္ခိဏသာခါ ဘုရားတစ်ဆူကိုလည်း ဖူးတွေ့ရပါသည်။ အဝိုင်းမင်းကျောင်း ဆရာတော် ဘုရားကိုးကွယ်သော ဘုရားဖြစ်ကြောင်း၊ ဖောဓိသား အစစ်ဖြင့် ထုလုပ်ထားခြင်းဖြစ်ကြောင်း၊ နှစ်ပေါင်း ၃၀၀ ကြာပြီဖြစ်ကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၇)

## မီးကွင်းသော ဘုရား

၎င်းဘုရားကို ရေသပ္ပာယ်ပြီးနောက် ကျလာသောရေကို သောက်သုံးသူများ တွေ့ရှိဖူးကြောင်း၊ ၎င်းတို့၏ ပြောပြချက်အရ ရောဂါများပျောက်ကင်းကြောင်း သိရှိရပါသည်။

၎င်းအပြင် ထိုဘုရား၏ ထူးခြားမှုများထဲတွင်တစ်ခုမှာ မီးကွင်းသည်ဟူ၍ သိရှိရပါသည်။ ထိုအချက်တို့ကို ကျောင်းထိုင်ဆရာတော်မှတစ်ဆင့် သိရှိရကြောင်း သိရပါသည်။

## အဝိုင်းမင်းကျောင်း ဆရာစဉ်ဆက်

ဟသ်ာတမြို့ မင်းကျောင်းတွင် ပထမမင်းကျောင်းဆရာတော်ဘုရားလက်ထက်မှစ၍ ယခုအထိ ( ၆ )ဆက်မျှရှိပြီဖြစ်ကြောင်း သိရှိရပါသည်။

၁၈၆၅ အေဒီ ၁၈၆၅ (၁၂၂၇ ခုနှစ်) တွင် ပထမ မင်းကျောင်းဆရာတော် ဦးပညာဇောတ ကျောင်းထိုင်ခဲ့ကြောင်း၊

၁၈၉၈ ၎င်းနောက် အေဒီ ၁၈၉၈ (၁၂၆၀ ခုနှစ်) တွင် ဦးရာဇိန္ဒ ကျောင်းထိုင်ခဲ့ကြောင်း၊

၁၉၀၈ ၎င်းနောက် အေဒီ ၁၉၀၈ (၁၂၇၀ ခုနှစ်) တွင် ဦးကုမာရ ကျောင်းထိုင်ခဲ့ကြောင်း၊

၁၉၃၃ ၎င်းနောက် အေဒီ ၁၉၃၃ (၁၂၉၅ ခုနှစ်) တွင် ဦးပညာ ကျောင်းထိုင်ခဲ့ကြောင်း၊

၁၈၅၂ ၎င်းနောက် အေဒီ ၁၉၅၂ (၁၃၁၄ ခုနှစ်) တွင် ဦးပဏ္ဍိတဓဇ ကျောင်းထိုင်ခဲ့ကြောင်း သိရှိရပါသည်။



(၆) ဆက်မြောက် ကျောင်းထိုင်ဆရာတော်မှာ ဦးအဂ္ဂဝံသ ဖြစ်ကြောင်း၊ သက်တော် ၅၆၊ ဝါတော် ၃၆ ဝါ ရှိကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ ဦးခင်မောင်သန်း၊ အမက ပခန်းတန်း၊ နဂ္ဂတ္တရောင်ခြည်၊ ၁၉၉၉ ခု၊ ဇူလိုင်လ စာ ၄၈ )

## ဘိုးတော်ဦးဝိုင်း၏သားလက်ထက်က အမည်ဆန်းဆန်း

အဝိုင်းမင်းကျောင်းဟူသောအမည်မှာ အမည်ဆန်းသဖြင့် စိတ်ဝင်စားသူများလည်း ရှိကြပါသည်။ ရှေးအခါက မြန်မာမင်းအဆက်ဆက်တို့ ကိုးကွယ်ခဲ့ကြကြောင်းသိရပါသည်။

၁၇၈၆ ဧင်းနောက် အေဒီ ၁၇၈၆ (၁၁၄၈ ခုနှစ်)တွင် ကျောက်ရဲမြို့စား တောင်ငူဘုရင်ခံ (ဘိုးတော်ဦးဝိုင်း၏သားလတ်) မင်းသားကြီးမောင်ရွှေအူခေါ် မောင်စလွယ်က ပြုပြင်တည်ဆောက်ခဲ့ကြောင်းသိရပါသည်။

၁၈၅၄ ပထမ အဝိုင်းမင်းကျောင်း ဆရာတော်ဘုရားကြီး အေဒီ ၁၈၅၄ (၁၂၁၆ ခုနှစ်) တွင် ရဟန်းပြုကြောင်း၊ မန္တလေးမြို့ မန္တလာရာမတိုက် ပြည်စံကျောင်းတိုက်တို့မှာ ၁၁ နှစ်ကာလပတ်လုံး စာပေကျမ်းဂန်များ သင်ကြားခဲ့ကြောင်းသိရပါသည်။

၁၈၆၅ အေဒီ ၁၈၆၅ (၁၂၂၇ ခုနှစ်)တွင် ဟင်္သာတမြို့ မင်းကျောင်းတွင် ပြန်လည်သီတင်းသုံးတော်မူခဲ့ကြောင်း၊ ထိုအခါမှစ၍ မင်းကျောင်းဆရာတော် ဦးပညာဇောတဟူ၍ အကျော်တစောရှိခဲ့ကြောင်း ထိုအခါမှစ၍ မင်းကျောင်းဟူသော ကျောင်းတော်ကြီးလည်း အမည်ထင်ရှားလာခဲ့ကြောင်းသိရှိရပါသည်။

## ဘာ့ကြောင့် အဝိုင်းမင်းကျောင်း

၁၉၀၈ မင်းကျောင်းဟူသော လူသိများသည့် ကျောင်းတော်ကြီးသည် နောင်သောအခါ အဝိုင်းမင်းကျောင်းဟူ၍ လူသိများလာပြန်လေသည်။ အဘယ်ကြောင့်ဆိုသော် အေဒီ ၁၉၀၈ (၁၂၇၀ ပြည့်နှစ်)တွင် အဝိုင်းကျေးရွာက ဆရာတော်ကြီး တစ်ပါးသည် မင်းကျောင်းတွင် လာရောက်၍ သီတင်းသုံးတော်မူခဲ့သောကြောင့်ဖြစ်ပါသည်။ ထိုအခါမှစ၍ အဝိုင်းမင်းကျောင်းဟု ခေါ်တွင်လာကြကြောင်းသိရပါသည်။ ဆရာတော်ကြီးကိုလည်း အဝိုင်းမင်းကျောင်းဆရာတော်ဟု ခေါ်တွင်တော်မူကြောင်း သိရပါသည်။

၁၉၀၈ အဝိုင်းမင်းကျောင်း ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၀၈ (၁၂၇၀ ခုနှစ်)တွင် အဝိုင်းမင်းကျောင်းသို့ ကြွလာစဉ်ကာလက အတူပါလာခဲ့သော ဒက္ခိဏာသာခါ ဘုရားတစ်ဆူကိုလည်း ယနေ့ထက်တိုင် ဖူးတွေ့နိုင်ပါသေးသည်။

အဝိုင်းမင်းကျောင်းသည် ဟင်္သာတခရိုင်၊ ဟင်္သာတမြို့ ညောင်ပင်ရပ်တွင်ရှိပါသည်။ အဝိုင်းမင်းကျောင်းဟူ၍ပင်ခေါ်ကြပါသည်။

(ကျမ်းကိုး၊ ဦးခင်မောင်သန်း၊ အမက ပခန်းတန်း၊ နဂ္ဂတ္တရောင်ခြည်၊ ၁၉၉၉ ခု၊ ဇူလိုင်လ စာ ၄၅-၄၇ )

ယနေ့တိုင် ရုပ်ကလာပ်တော်ကို ဖူးမြော်နိုင်သေးသော ရဟန္တာအရှင်မြတ်ကြီး

# စမ်းကျဆရာတော် ( စံကြဆရာတော် )

ခအေဒီ ၁၈၃၇ - ၁၉၃၃ (၁၁၉၉ - ၁၂၉၅ )





မြင်းခြံမြို့၏ အရှေ့ဘက် ၄ မိုင်ခန့်တွင် ကြည်လင်သည့် စမ်းချောင်းကမ်းနံဘေး၌ တောရကျောင်းကြီးတစ်ကျောင်းတည်ရှိ၏။ ထိုကျောင်း၌ စွန်းလွန်းဆရာတော်ပေါ် ထွန်းချိန်နှင့် မရှေးမနှောင်းအခါသမယတွင် စမ်းကျဆရာတော် သီတင်းသုံးတော်မူခဲ့၏။ ထိုဆရာတော်ဘုရားကြီး၏ အကျိုးအကြောင်းတို့ကို တော်ကူးဆရာတော်၏ ဘ၀ဆည်းဆာနှင့် ကျင့်စဉ်စာအုပ်တွင် ကြည်ညိုဖွယ် ဖတ်ရှုရပါသည်။

စမ်းကျဆရာတော်သည် ရွှေကျင်ဂိုဏ်း၀င်ဖြစ်ပြီး ၀ိနည်းသိက္ခာပုဒ်များကို အလွန်လေးစား၏ဟု သိရပါသည်။

တပည့် သံဃာတော်များကို စာပေကျမ်းဂန်များ ပို့ချပေးသည့်အပြင် ပဋိပတ်ကျင့်စဉ်ကိုလည်း ကြိုးစားအားထုတ်၏။ ကျောင်း၀င်းအနီး၌ လူတစ်ရပ်ကျော်မြင့်ပြီး ၈ ပေခန့်ကျယ်လျက် အလွန်ရှည်လျားသော ဂူတစ်ခုရှိ၏။ နေ့အခါ ပူပြင်းသည့်အချိန်၌ ဆရာတော်သည် ထိုဂူထဲ၌သာ တရားအားထုတ်နေလေ့ရှိ၏။

စမ်းကျဆရာတော်သည် မေတ္တာဘာ၀နာကိုလည်း အလေးပေး၍ စီးဖြန်းတော်မူ၏။ သီလ, သမာဓိ, ပညာ မြင့်မား၍ သတ္တ၀ါများကို ကယ်တင်နိုင်သည့်အခြေသို့ရောက်သောအခါ နာနာဘာ၀များက လာရောက်ပြီး အမျှတောင်းခံကြ၏။ ဆရာတော်သည် ကျောင်းပေါ်၌ထိုင်၍ သီတင်းသုံးနေစဉ် လက်နှစ်ဖက်ကို တစ်စုံတစ်ရာပေးဝေနေသည့် ဟန်အမူအရာကိုပြ၍ နှုတ်ကလည်း ရော့ ရော့ ဟု ဆိုတော်မူ၏။

အတူ သီတင်းသုံးသည့် တပည့်ကြီးရဟန်းက မေးမြန်းသောအခါ 'သတ္တ၀ါတို့ကို အမျှပေးဝေနေတာပါ'ဟု ဖြေကြားတော်မူ၏။ ထူးခြားချက်မှာ ဆရာတော်ပျံလွန်သောအခါ ရုပ်ကလာပ်တော်သည် မပုပ်မသိုးခြင်းပင်ဖြစ်၏။

ဒါယကာများက ကြည်ညိုကြသဖြင့် ကျောင်းပရိ၀ုဏ်ပြင်ပ၌ လွမ်းစေတီကြီးတစ်ဆူတည်ထားပြီးလျှင် စေတီအောက်ခြေ၌ ဆရာတော်၏ ရုပ်ကလာပ်တော်ကို မှန်ခေါင်းနှင့်ပူဇော်ထားကြ၏။

ကာလရှည်ကြာသောအခါ ရုပ်ကလာပ်တော်သည် မာကျောခြောက်သွေ့၍ ရှုံ့တွညိုမည်းသွား၏။

(ကျမ်းကိုး။ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘ၀ဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်၀ါရီလ၊ ဆန်းမြသီဟိပုံနှိပ်တိုက်၊ စာ ၈၀)

**စမ်းကျဆရာတော်ဘုရားကြီး၏ ခြေဖ၀ါးနှစ်ဖက်ကို သူခိုးများက ခိုးယူသွားကြောင်း အံ့ဖွယ်ဖတ်ရှုရပါသည်။**

**များမကြာမီက မသမာလူတစ်စုသည် မှန်ခေါင်းအတွင်းမှ ရုပ်ကလာပ်တော်၏ ခြေဖမိုးနှစ်ဖက်ကို ချိုးဖြတ်ယူဆောင်သွားကြ၏။ မည်သည့် ရည်ရွယ်ချက်ဖြင့် ဤအပြစ်ကြီးလှသောအမှုကို ပြုလုပ်ကြသည်မသိ ဆေး၀ါးဖော်ဖို့လေလား။**

ရုပ်ကလာပ်တော်ကို ကျောင်း၀င်းပြင်ပရှိစေတီတော်၌ ဆက်လက် ပူဇော်ထားရှိရန် စိတ်မချရတော့သည့်အတွက် ကျောင်း၀င်းအတွင်းရှိ မွှာရုံတွင်းသို့ ယာယီ



ပြောင်းရွှေ့ထားကြ၏။ ခြေဖမိုးနှစ်ဖက် ချိုးထားသည့်နေရာတို့၌ အကြောပြိုင်းပြိုင်း ထလျက်ရှိသည်ဟု ဒကာများကဆိုကြ၏။

ကျွန်တော်တို့ သွားရောက်ပူဇော်သည့်အခါ ရွှံ့ဖြင့်ခြေဖမိုး အတုများ ပြုလုပ်ထားသည့်အတွက် မပြောပြလျှင် ရုပ်ကလာပ်တော်သည် အင်္ဂါစုံလင် နေသည်ဟုပင် ထင်မြင်ရ၏။ သို့သော် စွန်းလွန်းဆရာတော်၏ ရုပ်ကလာပ်ကဲ့ သို့ပင် အချို့နေရာများ၌ ပွန်းပဲ့၍ မတင့်တယ်ပါလေပြီ။

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘဝ ဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီရိပုံနှိပ်တိုက်၊ စာ ၈၀)

စမ်းကျကျောင်းတိုက်ကြီးမှာ သင်္ဂဇာဆရာတော်ဘုရား တည်ဆောက်ခဲ့သော ကျောင်းတိုက်ကြီး ဖြစ်ကြောင်းသိရပါသည်။ (ဆရာတော်ဘုရားကြီးလက်ထပ်က စံကြဟုခေါ်၏)

သင်္ဂဇာဆရာတော်ဘုရားကြီးသည် ၁၂၃၆ ခုနှစ်တွင် ဤစံကြကျောင်းတိုက်ကြီးကို တည်ထောင်တော်မူ၍ (၆) ဝါပတ်လုံး သီတင်းသုံးတော်မူပြီးလျှင် ဆရာတော်ကြီးအား လွှဲအပ်တော်မူခဲ့၏။ ဆရာတော်ကြီးသည် အသက်ထက်ဆုံး ပရိယတ်ကို ပို့ချတော် မူ၏။ ဆရာတော်ကြီး၏ လက်ထက်က စာသင်သား (၆၀-၇၀)ရှိ၏။ များသော နှစ်တွင် (၁၀၀) လောက်အထိရှိ၏။ ပရိယတ္တိ စာသင်တိုက်ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၆၅)

စမ်းကျကျောင်းတိုက်ကြီးကို စံကြကျောင်းတိုက်ဟုလည်း ခေါ်ဆိုကြောင်းသိရပါသည်။

ယခုလည်း ပရိယတ်ကို ပို့ချနေသော စာသင်တိုက်ဖြစ်သည်။ မြင်းခြံမြို့၏ အရှေ့ဘက် ၄ မိုင်ခန့် ကွာဝေးသောအရပ်၌ ချောင်းပတ်လည်ဝိုင်းလျက် ညို့ညို့မှိုင်းမှိုင်း အုံ့ဆိုင်း သော သစ်ပင်အရိပ်အာဝါသတို့ဖြင့် ခမြကြည်လင်သော တောကျောင်းတိုက်ကြီး ဖြစ်၏။ တသွင်သွင်စီးဆင်း၍နေသော စမ်းရေအလျဉ်တို့ကို အမှီပြု၍ (စမ်းကျ) ကျောင်းတိုက်ဟူ၍လည်းခေါ်ကြ၏။ ထို့ပြင် သင်္ဂဇာဆရာတော်ကြီး ကပင်လျှင် ဤနေရာသည် ဘူမိနက်သန် မှန်သောနေရာဖြစ်၍ ပရိယတ်လုပ်ငန်းအားထုတ်၍ စံရစ်ကြဟု မိန့်တော်မူခဲ့၍ (စံကြ)ဟု အမည်ပေးခဲ့သောကြောင့် (စံကြ)တိုက်ဟု ခေါ်သည်။

မြင်းခြံမြို့မှ မော်တော်ကား မြင်းရထား ဆိုက်ကဲ့ ဆိုင်ကယ်တို့ဖြင့် ကျောင်းသို့ ရောက်အောင် သွားလာနိုင်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၆၅)

ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်သည် အဘယ်ကြောင့် မပုပ်မသိုးကြောင်း အဖြေကို မြင်းခြံစံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကျမ်းတွင် ရေးသားချက်ကို ဖတ်ရှုရပါသည်။ ထိုရေးသား ချက်မှာ ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချပြီးနောက် နှစ် ၂၀ ကြာသောအခါမှ ထုတ်ဝေသော ကျမ်းအရ စံကြတိုက်ဆရာတော် ဦးမာနိတ၏စာတွင် ဖတ်ရှုရခြင်းဖြစ်ပါသည်။

ကျွန်ုပ်တို့၏ အဖြေမှာ -

ကျွန်ုပ်တို့၏ ဆရာတော်ဘုရားကြီးသည် သက်တော်ထင်ရှား ရှိတော်မူစဉ်က ပြဆိုခဲ့ပြီး သော၊



၁။ ပရိယတ်ကျမ်းဂန် အတန်တန်ကို မပြတ်ပို့ချခြင်း၏ အစွမ်းတန်ခိုးအာနုဘော်၊
၂။ မေတ္တာဘာဝနာ၏ အာနုဘော်။
၃။ ဘုရားဂုဏ်တော်ကို အောက်မေ့ခြင်း ဗုဒ္ဓါနုဿတိ၏ အာနုဘော်။
၄။ သတိပဋ္ဌာန် ဒေသနာလာသည့်အတိုင်း မြဲစွာသော သတိဖြင့် ကာယ ဝေဒနာ စိတ္တဓမ္မတို့၌ အဖန်ဖန် ရှုခြင်းတည်းဟူသော သတိပဋ္ဌာန်၏ အာနုဘော်တို့ ကြောင့်သာလျှင် ကျွန်ုပ်တို့၏ ဆရာတော်ကြီးသည် ပျံလွန်တော်မူသော်လည်း မပုပ်မသိုးသော ရုပ်ကလာပ်တော်ဖြင့် ထင်ရှားစွာတည်ရှိပေ၏ဟု ကျွန်ုပ်တို့၏ ဉာဏ်တွင် ထင်မြင်သော အဖြေပေးလိုက်ရပါသည်။

ဆရာတော်ကြီးသည် စာပေကျမ်းဂန်တို့ကို ပို့ချပြီးနောက်၌ စင်္ကြံလျှောက် လျက် မေတ္တာဘာဝနာကမ္မဋ္ဌာန်းကို စီးဖြန်းတော်မူ၏။

မေတ္တာဘာဝနာ ကမ္မဋ္ဌာန်းကို စီးဖြန်းပြီးသည်၏နောက်၌ စင်္ကြံဦး၌ ထိုင် လျက် ဗုဒ္ဓါနုဿတိဆင်ခြင်တော်မူ၏။ ဤလုပ်ငန်းကို နေ့စဉ်လုပ်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၇၁-၇၂)

အလွန်ထူးဆန်းသောအချက်တစ်ချက်မှာ ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က မိန့်တော် မူခဲ့သော ဆုတောင်းပုံအစဉ်ဖြစ်၏။ အထက်ပါကျမ်းကြီးတွင် ဖတ်ရှုမှတ်သားရပါသည်။

ငါသည် ပရိယတ်ကျမ်းဂန် အတန်တန်တို့ကို ပို့ချရခြင်း တည်းဟူသော ပရိယတ္တိ ကုသိုလ်၏ အဟုန်၊ မေတ္တာ ဘာဝနာတို့ကို ပွားများအားထုတ်ရခြင်း တည်းဟူသော မေတ္တာ၏အဟုန်၊ ဘုရားရှင်၏ ဂုဏ်တော်တို့ကို အောက်မေ့ခြင်း တည်းဟူသော ဗုဒ္ဓါနုဿတိ၏ အဟုန်တို့ကြောင့်လည်းကောင်း၊ ထို့ပြင် မိမိ၏ အားကိုးရာအတွက် ဝဋ်မှ ထွက်ရန် ရည်သန်၍ သတိပဋ္ဌာန် ဘာဝနာကို ပွားများ အားထုတ်ရခြင်း တည်းဟူသော သတိပဋ္ဌာန ဘာဝနာ၏ အဟုန်ကြောင့် ဤဘဝ၌ပင်လျှင် ကိလေသာ အနှောင်အဖွဲ့မှ လွတ်ရာနိဗ္ဗာန်သို့ရောက်ရလို၏။

(ကျမ်းကိုး၊ ယင်းကျမ်း စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၇၄)

အထက်ပါ အချက်မှာ ပထမဆုတောင်းဖြစ်၏။ ၎င်းနောက် ဆရာတော်သည် သက်တော်ရှည် ရုက္ခစိုးနတ်ကြီးအဖြစ် ဆုတောင်းကြောင်း အောက်ပါအတိုင်းဖတ်ရှုရပါသည်။

**အကယ်၍ ဤဘဝ၌ နိဗ္ဗာန်သို့ မရောက်သေးလျှင် ဒုတိယဘဝ၌ ဟိမဝန္တာတော စသည်တို့၌ အသက်ရှည်စွာနေရသော ရုက္ခစိုးနတ်ကြီးဖြစ်၍ ဘဝအဖန်ဖန် ပဋိသန္ဓေ မနေရဘဲ ဤရုက္ခစိုးအဖြစ်နှင့်သာ ဝိပဿနာတရားတို့ကို ပွားများ အားထုတ်ပြီးလျှင် ဓါတုပရိနိဗ္ဗာန်ပွဲဆင်နွှဲ၍ ပရိနိဗ္ဗာန်ဝင်စံရပါလို၏။**

(ကျမ်းကိုး၊ ယင်းကျမ်း စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၇၄)

၎င်းနောက် ဆရာတော်သည် အောက်ပါအတိုင်း နိဗ္ဗာန်ဆုကို တောင်းဆိုခဲ့လေသည်ဟု ဖတ်ရှုရပါသည်။

**အကယ်၍ ဓါတုပရိနိဗ္ဗာန်ပွဲတွင် မဝင်စံရသေးသည်ရှိသော်၊ အရိမေတ္တယျ ဘုရားရှင်၏ အထံတော်၌ အရိမေတ္တယျဘုရားရှင်၏ ဟောတော်မူအပ်သော တရားတော်ကို နာယူပြီးလျှင် မကြာမြင့်သောအချိန်ကာလဖြင့် ပရိနိဗ္ဗာန် ဝင်စံရပါလို၏။**

(ကျမ်းကိုး၊ ယင်းကျမ်း စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၇၄)



ဆရာတော်ကြီး သက်တော်ထင်ရှား ရှိစဉ်အခါက တစ်နေ့တာ၏ လုပ်ဆောင်ချက်များကို အထက်ပါ ကျမ်းကြီးမှာ ကြည်ညိုဖွယ်ရာဖတ်ရှုရပါသည်။

ဆရာတော်ကြီးသည် စာပေကျမ်းဂန်ပို့ချပြီးနောက် စင်္ကြံလျှောက်လျက် မေတ္တာဘာဝနာကမ္မဋ္ဌာန်း စီးဖြန်းတော်မူကြောင်း သိရှိရပါသည်။ ၎င်းနောက် စင်္ကြံဦး၌ ထိုင်လျက် ဗုဒ္ဓါနုဿတိ ဆင်ခြင်တော်မူ၏။ ဤလုပ်ငန်းကို နေ့စဉ်လုပ်တော်မူ၏။

(ကျမ်းကိုး။ ယင်းကျမ်း စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၆၆)

ဤသို့ ပြဆိုခဲ့ပြီးသော ဆရာတော်ကြီးသည် တစ်နေ့တာလုပ်ငန်းစဉ်အဖြစ် အောက်ပါတို့ကို လေ့လာကြည်ညိုရပါသည်။

၁။ ပရိယတ် ကျမ်းစာတို့ကို ပို့ချသော ပရိယတ္တိလုပ်ငန်း။

၂။ သေနာသနဝတ်စသော ဝတ်ကြီးဝတ်ငယ်တို့ကိုပြုသော နိဗဒ္ဓဝတ်အကျင့်လုပ်ငန်း။

၃။ မေတ္တာဘာဝနာကို ပွားများသော မေတ္တာလုပ်ငန်း။

၄။ ဘုရားရှင်၏ ဂုဏ်တော်တို့ကို အဖန်ဖန်အောက်မေ့သော ဗုဒ္ဓါနုဿတိ လုပ်ငန်းတို့ကို ဆရာတော်ဘုရားကြီးသည် မအိုမီ သက်တော် (၈၅-၉၀) တွင်းသို့ မရောက်မီက နေ့ရောညပါ အားထုတ်တော်မူသည်။

ထို့မှနောက် (၈၅-၉၀)မှ ကျော်လတ်သော် သတိပဋ္ဌာန် ဘာဝနာကိုသာ အားထုတ်တော်မူ၏။ သတိပဋ္ဌာန်တရားကိုသာဟောတော်မူ၏။

(ကျမ်းကိုး။ ယင်းကျမ်း စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၆၆-၆၇)

စမ်းကျဆရာတော်၏ မဟာထေရုပ္ပတ္တိကထာမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

စမ်းကျဆရာတော်ဘုရားကြီးကို ငါးရာနဲမြို့မ၌ အဖ ဦးမှတ် အမိ ဒေါ်လုံတို့မှ ဖွားမြင်တော်မူကြောင်းသိရှိရ ပါသည်။ စတုတ္ထမြောက် သားဖြစ်ကြောင်းသိရပါသည်။

၁၈၃၇ အေဒီ ၁၈၃၇ ( မြန်မာသက္ကရာဇ် ၁၁၉၉ ခု၊ တန်ခူးလပြည့်ကျော် ၄ ရက် ) ကြာသပတေးနေ့ နံနက် ၄ ချက်တီး အကျော်တွင် ဖွားမြင်တော်မူကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ ပရိဖက်ဆာ မြန်မာပညာရှိ ဆရာဖုံး မြင်းခြံမြို့၏ စမ်းကျဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိ အကျဉ်းချုပ်)

၁၉၃၃ ဆရာတော်ကြီးသည် သက်တော် ၉၆ နှစ်၊ ဝါတော် ၇၆ ဝါတွင် အေဒီ ၁၉၃၃ ခု၊ ဒီဇင်ဘာလ ၂၁ ရက်၊ (သက္ကရာဇ် ၁၂၉၅ ပြာသိုလဆန်း ၆ ရက်) ကြာသပတေးနေ့ နံနက် ၉နာရီ ၁၀ မိနစ်အချိန်တွင် ဇီဝိန်ပြတ်ကင်း ချုပ်ငြိမ်းခြင်းသို့ ရောက်တော်မူကြောင်းသိရှိရပါသည်။

(ကျမ်းကိုး။ ပရိဖက်ဆာ မြန်မာပညာရှိ ဆရာစိန့်၊ မြင်းခြံမြို့ ထေရုပ္ပတ္တိအကျဉ်း)

စစ်ကဲတော်မင်းကြီး ဖေယျကျော်ထင် ဦးမှတ်နှင့် ဒေါ်လုံတို့၏ စတုတ္ထသားရတနာ ဖြစ်ခါ ပဋိသန္ဓေနေစဉ် မယ်တော်သည် နေ လ နှစ်ပါးကို ရင်ဝယ် ပွေ့ပိုက်ရသည်ဟု အိပ်မက် မက်လေသည်။



| | |
|---|---|
| ၁၈၄၄ | အေဒီ ၁၈၄၄ ခု၊ (၁၂၀၆ ခုနှစ်) အသက် ၇ နှစ်အရွယ်တွင် ကျောင်းသားဘဝဖြင့် စာဝါ သင်အံခဲ့သည်။ |
| ၁၈၅၀ | အေဒီ ၁၈၅၀ခု၊ (၁၂၁၂ ခုနှစ်) အသက် ၁၃ နှစ်အရွယ်တွင် သာမဏေဘဝသို့ ရောက်သည်။ |
| ၁၈၅၇ | အေဒီ ၁၈၅၇ ခု၊ (၁၂၁၉ ခုနှစ်) အသက် ၂၀ တွင် ရဟန်းဖြစ်ခါ သင်္ဂဇာဆရာတော် ဘုရားကြီးထံတွင် စာဝါတက်ရောက်သည်။ |
| ၁၈၆၀ | အေဒီ ၁၈၆၀ ခု၊ (၁၂၂၂ ခုနှစ်) (၂၃) ဝါအရတွင် စမ်းကျတောရအား ကွပ်ကဲ အုပ်ချုပ်၍ စာပေပရိယတ္တိများ ပို့ချတော်မူသည်။ |
| ၁၈၆၈ | အေဒီ ၁၈၆၈ ခု၊ (၁၂၃၀ ခုနှစ်) ၁၁ ဝါမြောက်တွင် စစ်ကိုင်းတောင်ရိုး ကောဏ္ဍည ချောင်တွင် ကမ္မဋ္ဌာန်းတရား အားထုတ်နေရာ မော်လမြိုင်မှ ဒါယကာများ ပင့်ဆောင်သဖြင့် သင်္ဂဇာဆရာတော်နှင့်အတူ သာသနာပြု တရားဓမ္မ ဟောကြားရာ ကြွရောက်သည်။<br>ထို့နောက် မင်းတုန်းမင်းကြီး တောင်းပန်ချက်အရ သင်္ဂဇာဆရာတော်နှင့်အတူ နန်းတော်သို့ ကြွရောက်သီတင်းသုံးကာ မင်းမိဖုရား သားတော် သမီးတော်တို့အား ဆုံးမဩဝါဒပေး၍ အပူဇော်ခံယူရသည်။ |
| ၁၉၃၃ | အေဒီ ၁၉၃၃ ခု၊ ဒီဇင်ဘာလ ၂၁ ရက်၊ ကြာသပတေးနေ့ (၁၂၉၅ ခုနှစ် ပြာသိုလဆန်း ၆ ရက်နေ့)တွင် ပျံလွန်တော်မူသည်။ |
| ၁၉၃၅ | ၁ နှစ်အကြာ အေဒီ ၁၉၃၅ ခု၊ မတ်လ (၁၂၉၆ ခုနှစ် တပေါင်းလ)တွင် သာစုကိုင္ဘန သဘင်ကျင်းပကြသည်။ |

(ကျမ်းကိုး၊ ထက်မင်းကျော်စွာ၊ အေးမြသာယာသည့် စမ်းကျသာသနာမြေ၊ နက္ခတ္တ ရောင်ခြည်၊ ၂၀၀၂ ခု၊ နိုဝင်ဘာလ စာ ၁၇-၂၀၊ ) (၂) ထက်မင်းကျော်စွာ၊ အေးမြသာယာ သည့် စမ်းကျသာသနာမြေ၊ နက္ခတ္တရောင်ခြည်၊ ၂၀၀၂ ခု၊ နိုဝင်ဘာလ စာ ၁၂၁ -၁၂၃)

စမ်းကျဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်းကို စမ်းကျတိုက်ကျောင်း ဦးမာနိတက ရေးသားပြုစုခဲ့ပါသည်။ ထိုစာအုပ်တွင် ဦးမာနိတ စံကြတိုက်ဟုတွေ့ရှိရပါသည်။ ထေရုပ္ပတ္တိအကျဉ်းတွင်လည်း မြင်းခြံစံကြဆရာတော်ဘုရားကြီးဟူ၍ တွေ့ရှိရပါသည်။ ထိုစာအုပ်မှာ စာမျက်နှာ ၂၃၁ ရှိပါသည်။

စမ်းကျဆရာတော်ဘုရားကြီးမှာ ၁၂၉၅ ခုနှစ်က ပျံလွန်တော်မူခဲ့ပါသည်။ နောက်ထပ် အနှစ် ၂၀ ကြာသောအခါမှာ ထိုစာအုပ်ကြီး ထွက်လာခဲ့ပါသည်။ ယခင်က ထုတ်ဝေခဲ့သော ထေရုပ္ပတ္တိစာအုပ်၌ ဆရာတော်ကြီး၏ ထေရုပ္ပတ္တိမျှသာ ပါရှိ၏။ နောက်ထုတ် စာအုပ်တွင်ကား ပင်ကိုပကတိသော ရုပ်ကလာပ်တော် ယခုတိုင် တည်ရှိကြောင်း ပါရှိလာခဲ့လေသည်။

ထိုထေရုပ္ပတ္တိအကျဉ်း၌ပင် နမောစမ်းကျ မဟာထေရဿဟူ၍ ရေးသားထားကြောင်းတွေ့ရ၏။ ထို့ကြောင့် စံကြဆရာတော် ဟူ၍လည်းခေါ်ကြ၏။ စမ်းကျဆရာတော်ဟူ၍လည်းခေါ်ကြ၏။ ဤသို့သိရှိရပါသည်။ ဖော်ပြခဲ့ပြီးဖြစ်ပါသည်။

(ကျမ်းကိုး၊ ဦးမာနိတ၊ စံကြတိုက်၊ ၁၃၁၅ ခု၊ စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ အကျဉ်း စာ ၅ )



ထေရုပ္ပတ္တိအကျဉ်းကို ပရိဖက်ဆာ မြန်မာပညာရှိ ဆရာစိန့် မြင်းခြံမြို့ကလည်း ရေးသားပူဇော်ခဲ့၏။ ၎င်းအပြင် ထေရုပ္ပတ္တိအကျဉ်းကို ပရိဖက်ဆာ မြန်မာပညာရှိ ဆရာဖုံး မြင်းခြံမြို့ကလည်း စမ်းကျဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိအကျဉ်းချုပ် ဟူ၍ရေးသားခဲ့ပြန်လေသည်။ ၎င်းအပြင် ရေစကြိုမြို့ ပရိဖက်ဆာ မြန်မာပညာရှိ ဆရာဆန်းကလည်းရေးသားခဲ့သည်။ ၎င်းအပြင် မြန်မာပြည်အထက်ပိုင်း၊ မြေလတ်ပိုင်း၊ မြင်းခြံမြို့ ပရိဖက်ဆာဆရာကြီးဗလုံမြင့်ကလည်း ရေးသားခဲ့ပြန်လေသည်။

(ကျမ်းကိုး၊ ဦးမာနိတ၊ စံကြတိုက်၊ ၁၃၁၅ ခု၊ စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၁၀၊ ၁၆၊ ၂၀၊ ၅၃ )

စမ်းကျဆရာတော်ဘုရားကြီးမှာ ၁၂၉၅ ခုနှစ်တွင် ပျံလွန်တော်မူသဖြင့် ထိုနှစ်သည် ညောင်လွန့်ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုသောနှစ်နှင့်အတူတူပင် ဖြစ်လေသည်ဟုသိရပါသည်။

မဖြစ်စဖူး အဖြစ်ထူးစွာ မပုပ်မသိုးဘဲ ပင်ကို ပကတိအတိုင်း ကြွင်းကျန်ရစ်သော ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို မသဂြိုဟ်ဘဲထားပါက နောင်နောင်အခါ၌ များစွာသော တပည့်သားအပေါင်းတို့ ဖူးမြော်ကြရသည်ရှိသော် စေတနာ သဒ္ဒါ တိုးပွားခြင်း၏ အကြောင်းဖြစ်ပါသည်ဟု ဒကာ ဒကာမ အပေါင်းတို့က လျှောက်ထားကြသဖြင့် ရုပ်ကလာပ်တော်ကို လွမ်းစေတီ၌ ထည့်သွင်းကိုးကွယ်ကြကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း စာ ၅၆-၅၇)

ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို ပင်ကိုပကတိအတိုင်းသာထားကြောင်း မှတ်တမ်းတွေ့ရှိရပါသည်။

ရုပ်ကလာပ်တော်ကို ပျံလွန်တော်မူပြီးစကလည်း မပုပ်သိုးအောင် ဝမ်းခွဲခြင်း၊ ယခုခေတ်ကဲ့သို့ ဆေးထိုးခြင်း၊ ဆေးရည်စိမ်ခြင်း၊ ဆေးရည်ပက်ခြင်း အစရှိသော အမှုတို့ကိုမပြုပေ။ (ထိုဆရာတော်ကြီး ပျံလွန်တော်မူစဉ်က ဆေးထိုးခြင်းစသော အမှုများ ထင်ရှားစွာမပေါ်သေးချေ။ ပင်ကိုပကတိအတိုင်းသာထားပါ၏။)

၁၉၃၄ ပျံလွန်တော်မူပြီးသော နှစ် (၁၂၉၅)ခုနှစ်မှစ၍ ယခုတိုင် ပင်ကို ပကတိအတိုင်းသာထားပါ၏။ မည်သို့မျှမပြုပြင်။

၁၉၅၃ ယခုတိုင်ဆိုသည်မှာ ၁၃၁၅ ခုနှစ်အထိကို ဆိုလိုခြင်းဖြစ်ပါသည်။ ထိုနောက်မှစ၍ ယခုတိုင်လည်း ပကတိသော ရုပ်ကလာပ်တော်ကိုဖူးမြော်နိုင်ပါသည်။

(ကျမ်းကိုး၊ (၁) ဦးမာနိတ၊ စံကြတိုက်၊ ၁၃၁၅ ခုထုတ်၊ စံကြဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း ) (၂) ထက်မင်းကျော်စွာ၊ အေးမြသာယာသည့် စမ်းကျသာသနာမြေ၊ နက္ခတ္တရောင်ခြည်၊ ၂၀၀၂ ခု၊ နိုဝင်ဘာလ စာ ၁၇-၂၀၊ ) (၃) ထက်မင်းကျော်စွာ၊ အေးမြသာယာသည့် စမ်းကျသာသနာမြေ၊ နက္ခတ္တရောင်ခြည်၊ ၂၀၀၂ ခု၊ ဒီဇင်ဘာလ စာ ၁၂၁ -၁၂၃)

ယနေ့တိုင် ရုပ်ကလာပ်တော်ပုံးမြော်နိုင်သေးသော

# ထိမ်တော ရွာမ ဆရာတော်ဘုရားကြီး

ခေအဒီ ၁၈၃၈ – ၁၉၃၁ (၁၂၀၀–၁၂၉၃)





ထိမ်တောရွာမ ဆရာတော်ကြီးနှင့်စပ်လျဉ်း၍ တစ်ဝဂ္ဂဖွင့်ကာ ဆရာတော်ကြီး ရုပ်အလောင်းတော်ကို မှန်ခေါင်းဖြင့်ထည့်၍ ပူဇော်ခဲ့သည်မှာ ယနေ့တိုင်အောင်ဖြစ်သည်ဟုသိရသဖြင့် အံ့သြကြည်ညိုမိပါသည်။

**နှစ်စဉ် နှစ်တိုင်းပင်လျှင် ဘုရားပွဲတော်ကို တပေါင်းလဆန်း ၁၄ ရက်နေ့တွင် စတင် ကျင်းပကြောင်း ၃ ရက်တိတိ ကျင်းပလေ့ရှိကြောင်းသိရပါသည်။ နှစ်စဉ် နှစ်တိုင်းပင်လျှင် တပေါင်းလပြည့်နေ့တွင် ရုပ်ကလာပ်တော်ကို အပြင်သို့ ထုတ်ပြီးလျှင် သင်္ကန်းတော်အသစ်ကို လဲလှယ်တော်မူကြောင်း အမျိုးမျိုးသော ပူဇော်မှုများကို ပြုတော်မူကြောင်းသိရှိရပါသည်။ ၎င်းနောက် ရုပ်ကလာပ်တော်ကို ၁ ရက်ကြာမျှ အပူဇော်အကန်တော့ခံပြီးသည့်နောက် နောက်တစ်နေ့ဖြစ်သော လဆုတ် ၁ ရက်နေ့တွင် ရုပ်ကလာပ်တော်ကို ဂူအတွင်းသို့ တစ်ဖန် ပြန်သွင်း၍ နှစ်စဉ်ပူဇော်ပွဲကြီးကို ပြုလုပ် လေ့ရှိကြောင်းသိရှိရပါသည်။**

(ကျမ်းကိုး၊ ဦးအောင်ခင် (ပုပ္ပါး)၊ ထိမ်တော ရွာမ ဆရာတော်ဘုရားကြီး၊ သီလဝ ဘာသာရေး မဂ္ဂဇင်း၊ အတွဲ ၇၊ အမှတ် ၂၊ ၁၉၉၆ ခု၊ ဖေဖော်ဝါရီလ စာမျက်နှာ ၅၂ )

၁၈၃၈ ဖွားသက္ကရာဇ်မှာ အေဒီ ၁၈၃၈ ၊ (၁၂၀၀ ပြည့်နှစ် ဒုတိယဝါဆိုလဆန်း ၁၄ ရက်) ကြာသပတေးနေ့ နံနက် ၄ ချက်တီး အချိန်ဖြစ်ကြောင်း သိရသည်။

၁၉၃၂ ထိမ်တောရွာမ ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၃၂ မတ်လ ၂၁ရက်၊ (၁၂၉၃ ခုနှစ် တပေါင်းလပြည့်နေ့၊ တနင်္လာနေ့) ည ၇ နာရီ ၄၅ မိနစ် အချိန်တွင် တစ်ဘဝခန္ဓာကို ရုပ်သိမ်းတော်မူ၍ ခန္ဓာဝန်ချတော်မူသည်ဟုသိရပါသည်။

အံ့ဖွယ်ရာအချက်မှာ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်သည် ဆေးထိုးခြင်း အစရှိ သော လုပ်ရပ်ကိစ္စ အထွေထွေတို့ ပြုလုပ်ခြင်း ပြုပြင်ခြင်း လုံးဝမရှိဘဲနှင့် တည်ရှိနေခဲ့သည်ဟု သိရှိရပါသည်။ ရုပ်ကလာပ်တော်သည် အနံ့ နံစော်ခြင်း၊ ဖောင်းခြင်းပွခြင်းမရှိ ပကတိအတိုင်း တည်ရှိသဖြင့် ယနေ့တိုင် ဖူးမြော်နိုင်သည်ဟုဆိုပါသည်။

၁၉၃၂-၃၃ အေဒီ ၁၉၃၂ (၁၂၉၃ ခုနှစ်) တွင် ဘဝနတ်ထံစံလွန်တော်မူခဲ့သော်လည်း အေဒီ ၁၉၃၃ ၊ ဇန်နဝါရီလ (၁၂၉၄ ခုနှစ်) တပို့တွဲလသို့ ရောက်သောအခါမှ မဟာသဓုကီဠနပွဲသဘင်ကြီး ဆင်ယင်ကျင်းပ ပူဇော်ခဲ့သည်ဟုသိရပါသည်။ တစ်နှစ် တိတိကြာညောင်းခဲ့လေသည်။

၁၉၃၄ ၎င်းနောက် အေဒီ ၁၉၃၄ ခု (၁၂၉၅ ခုနှစ်)သို့ ရောက်သောအခါမှ ဗဟုပုညာနုနိမ္မိတအမည်ဖြင့် စေတီတော်တည်ထားကိုးကွယ်ခဲ့ပါသည်။

## တစ်နှစ်တစ်ကြိမ်သာ ရေချိုးလေ့ရှိသည်

ဆရာတော်ကြီး သက်တော် ထင်ရှားရှိစဉ်အခါက ထူးထူးခြားခြား ဖြစ်ရပ်များ အကြောင်းကိုလည်းကောင်း၊ တစ်နှစ်မှာတစ်ကြိမ်သာ ရေချိုးလေ့ရှိကြောင်းကို လည်းကောင်း၊ ဘာဆေးမှမမှီဝဲဘဲ ကျန်းမာအသက်ရှည်လျက်ရှိခြင်း အကြောင်းတို့ကို လည်းကောင်း ထပ်ဆင့်ကြည်ညိုနိုင်အောင် ပြန်လည်တင်ပြပါမည်။

(ကျမ်းကိုး၊ ဆန်းယဉ် ထိမ်တော၊ နှစ် ၅၀ ကျော်၊ မပုပ်မသိုးသော ဆရာတော်၊ မြတ်မွန် ရတနာ မဂ္ဂဇင်း၊ စာ ၁၇)



## နွားတစ်ကောင် ကျောင်းပေါ်တက်၍ ပူးမြော်ခြင်း

၁၉၂၆ အေဒီ ၁၉၂၆ (၁၂၈၇ ခုနှစ်) ထိမ်တောရွာမကျောင်းကြီး၏ အောက်ထပ် နေ့ခင်း ဆရာတော်ကြီး ကျိန်းစက်နေကျခုတင်ပေါ်၌ လျောင်းလျက် ပရိတ်မေတ္တာဘာဝနာကမ္မဋ္ဌာန်း ထုံမွှမ်းနေခိုက်တွင် နွားတစ်ကောင်သည် ကျောင်းပေါ်တက်ပြီး ဆရာတော်ကြီး၏ခြေတော်ရင်း၌ ပုဆစ်တုပ်ကာနေသည်ကို ကပ္ပိယ ဦးသာထူး ကိုယ်တွေ့ ဒိဋ္ဌမြင်ရသဖြင့် ရွာသူရွာသားများအား သွားရောက်ပြောရာ ၎င်းတို့အားလုံးလည်း အံ့ဩဖွယ်ရာတွေ့ခဲ့ကြရသည်။

ဆရာတော်ကြီးသည် ဒကာ ဒကာမတွေ၏ အံ့ဩမှုကို မလိုလားပေ။ 'နွားသတ္တဝါပဲ သူ့ဘာသာသူ တက်ချင်တက်မှာပေါ့၊ ဆင်းချင်ဆင်းမှာပေါ့။ ဘယ် တက်ဖူးတယ် ဘယ်ဟုတ်မလဲ'ဟု မိန့်ကြားတော်မူလေသည်။

(ကျမ်းကိုး၊ ဆန်းယဉ် ထိမ်တော၊ နှစ် ၅၀ ကျော်၊ မပုပ်မသိုးသော ဆရာတော်၊ မြတ်မွန်ရတနာ မဂ္ဂဇင်း၊ စာ ၁၇ )

## ရေမချိုးသော်လည်း နံစော်ခြင်းမရှိ

ဆရာတော်ကြီးသည် ဘယ်အခါမှ ရေချိုးတော်မမူပေ။ ရေမချိုးပေမယ့် ဆရာတော်ကြီး၏ ခန္ဓာတော်သည် နံစော်ခြင်းအလျဉ်းမရှိပေ။ သင်္ကန်းများလည်း ထို့အတူ နံစော်ခြင်းမရှိချေ။ ရေချိုးလို့သေသောမသာကိုသာ သူလိုက်ခဲ့ရကြောင်း၊ ရေမချိုးလို့ သေတဲ့မသာကို သူတစ်ခါမှ မလိုက်ခဲ့ဖူးဟု မိန့်ကြားတော်မူခဲ့သည်။

ဒကာ ဒကာမအပေါင်းတို့သည် တန်ခူးလအခါတွင် ဆရာတော်ကြီးအား ရေဖြင့် ကန်တော့လိုကြောင်း အကြိမ်ကြိမ် လျှောက်ထားကြသော်လည်း ငြင်းပယ်တော်မူလေသည်။ ထို့နောက် တပည့်ကြီးများက ထပ်မံလျှောက်ထားကြသောအခါကျမှ တစ်နှစ်တစ်ကြိမ်ရေချိုးတော်မူလေသည်။

(ကျမ်းကိုး၊ ဆန်းယဉ် ထိမ်တော၊ နှစ် ၅၀ ကျော်၊ မပုပ်မသိုးသော ဆရာတော်၊ မြတ်မွန်ရတနာ မဂ္ဂဇင်း၊ စာ ၁၇)

## ရေပုံးတစ်ရာလောင်းသော်လည်း ဘာမျှမပြော

ထိုသို့ ရေချိုးတော်မူသောအခါ ရေပုံးပေါင်း ၁၀၀ လောင်းသော်လည်း တော်ပြီဟူ၍လည်း မမိန့်မြွက်၊ ချမ်းသည်အေးသည်ဟူ၍လည်း မမိန့်မြွက်၊ ရေလှူသူတို့တော်မှသာ တော်တော်မူပြီး သင်္ကန်းအသစ်လဲလှယ်တော်မူသည်။ ဤသည်တို့ကြောင့် ယနေ့တိုင် တစ်နှစ်မှတစ်ကြိမ် ရေချိုးခြင်း၊ သင်္ကန်းလဲလှယ်ခြင်း ဥဒါန်းတွင်ရစ်၍နေခဲ့သည်။

## ဘာဆေးမှ မမှီဝဲ

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ဘာဆေးဝါးမှ မမှီဝဲခဲ့ပေ။ ဘာရောဂါမှလည်းမရှိ။ သက်တော် ၉၄ နှစ်အထိ ကျန်းမာချမ်းသာတော်မူခြင်း သက်တော်ရှည်ခြင်းရှိနေခဲ့သည့်အတွက် အာရောဂျဂုဏ်၊ ဒီဃာယုကဂုဏ်တို့နှင့် ပြည့်စုံခဲ့ပြီး အံ့ဩ၍မကုန်နိုင်ချေ။



ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ပရိတ်ကြီး ၁၁ သုတ်နှင့်တကွ အာဋာနာဋိယ သုတ်ကြီး၊ ဗောဇ္ဈင်သုတ်ကြီး၊ မဟာသမယသုတ်ကြီး၊ မဟာသတိပဋ္ဌာန သုတ်၊ ဓမ္မစကြာသုတ်၊ အနတ္တလက္ခဏာသုတ်၊ အဘိဏှသုတ်နှင့် ပဋ္ဌာန်း ပစ္စယုဒ္ဒေသ ပစ္စနိဒ္ဒေသတို့ကို အမြဲတမ်း ရွတ်ဖတ်သရဇ္ဈာယ်ပွားများ၍ နေခဲ့သောကြောင့် ကျန်းမာရေး ကောင်းခြင်း၊ အသက်ရှည်ခြင်း အကျိုးတို့ကို ခံစားရပေသည်။

(ကျမ်းကိုး၊ အထက်ပါအကြောင်းအရာတို့ကို ဦးအောင်ခင် (ပုပ္ပါး) ၏သီလဝ မဂ္ဂဇင်းစာအရ သိရပေသည်။)

ထိမ်တောရွာမ ဆရာတော်ကြီးသည် ဘွဲ့အမည်တော်မှာ ဦးပဏ္ဍိစ္စာဘိဝံသ ဖြစ်ကြောင်း၊ သာယာဝတီခရိုင် မိုးညိုမြို့နယ် ထိမ်တောရွာဇာတိဖြစ်ကြောင်း၊ သိရပါသည်။ မိခင် ဖခင်တို့၏ ဘွဲ့အမည်မှာ ဦးပွင့် ၊ ဒေါ်ခိုင် ဖြစ်ကြောင်း၊ ငယ်မည်မှာ မောင်မြတ်သာထွန်း ဖြစ်ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ အဂ်ပူ မဟာထေရုပ္ပတ္တိ၊ စာ ၃၀၃)

၁၈၄၇ အေဒီ ၁၈၄၇ ခု၊ (၁၂၀၉ ခု )၉ နှစ်သားအရွယ်တွင် ထိမ်တော တိုက်ကြီးကုန်း ဆရာတော် ဘုရားကြီးထံတွင် သင်ပုန်းကြီး ဆယ်စောင်တွဲ၊ သဒ္ဒါ သင်္ဂြိုဟ်ဖြစ်ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ အဂ်ပူ မဟာထေရုပ္ပတ္တိ၊ စာ ၃၀၃)

၁၈၅၀ အေဒီ ၁၈၅၀ (၁၂၁၂ ခု )သာမဏေဖြစ်သောအခါ အသက် ၁၂နှစ် အရွယ် ရောက်ပြီးဖြစ်ကြောင်း သိရပါသည်။

၁၈၅၂ အေဒီ ၁၈၅၂ ခု ( ၁၂၁၄ ခု ) ၎င်းနောက် ကိုရင်ဖြစ်၍ ၂ နှစ်ကြာသောအခါ ဖခင်ဖြစ်သူ ဦးပွင့် ကွယ်လွန်သဖြင့် မိခင်ကြီးအား လုပ်ကျွေးပြုစုရန် အလို့ငှာ ကိုရင်ဘဝမှာ လူထွက်ခဲ့ကြောင်း သိရှိ ရပါသည်။

(ကျမ်းကိုး၊ အဂ်ပူ မဟာထေရုပ္ပတ္တိ၊ စာ ၃၀၃)

သိမှီသူတို့က ပြောဆိုကြသည်မှာ ကိုရင်လူထွက် မောင်မြတ်သာထွန်းသည် အစဉ်အမြဲအားဖြင့် အဝတ်ဖြူကိုသာ အထက်အောက်ဝတ်ဆင်လေ့ရှိကြောင်းသိရှိရပါသည်။ ထိုစဉ်ကာလတွင် ဖခင်ကြီး မရှိတော့သဖြင့် မိခင်ကြီးကိုသာ ကိုရင်လူထွက် ဘဝဖြင့် ဝတ်ကြီးဝတ်ငယ်ပြုစုရကြောင်း သိရှိရပါသည်။

၎င်းအပြင် ခပ်ဆင်ဆင် အံ့သြဖွယ်ကောင်းသောအချက် တစ်ချက်မှာ ၂၀ ရာစု၏ သာသနာ့ ထိပ်ခေါင်တင် တစ်ဆူဖြစ်တော်မူသော လယ်တီဆရာတော်ဘုရားကြီးကိုယ်တိုင်ပင်လျှင် ငယ်စဉ်က ကိုရင်ဘဝ၌ မပျော်သဖြင့် လူထွက် ခဲ့ဖူးလေသည်။ လူထွက်ပြီး လယ်ထွန်ခဲ့သည်။ အလွန်နွမ်းဖို့ ကောင်းသည်ဟု ဆရာတော်များက ယူဆသဖြင့် ကိုရင်ပြန် ဝတ်ခိုင်းသည်။ သို့သော် လယ်တီဆရာတော် အလောင်းအလျာ မောင်တက်ခေါင်သည် ကိုရင်ဝတ်ရန် ခါးခါးသီးသီး ငြင်းဆိုခဲ့လေသည်။ ပင်ပင် ပန်းပန်း လယ်ထွန်ရသည်ကိုသာ မြတ်နိုးနေမိလေသည်။ ကိုရင်ဝတ်ပြီး ကျောင်းမှာနေရသည်ကို အလွန်ပျင်းသည်ဟုဆိုပါသည်။ ထို့နောက် တစ်နေ့သောအခါ ဗေဒင်ဆရာများ စားသာသည်ကို သိရသဖြင့် ဗေဒင်သင်ရလျှင် လယ်ထွန်တာထက် ပို၍တွက်ချေကိုက်လိုက်မည်ဟု ထင်မှတ်သဖြင့် ဗေဒင်သင်ပေးရန် ဆရာတော်ကြီးအား သွားလျှောက်သည်ဟု ဆိုပါသည်။ ထိုအခါ ဆရာတော်က သင်ပေးမယ်။ ဒါပေမယ့် လူဝတ်ကြောင်နဲ့တော့ အဖိုးတန်တဲ့ ဗေဒင်ပညာ သင်မပေးဘူး။ ကိုရင်



ဝတ်ရင်တော့ သင်ပေးမယ်ဟု မိန့်တော်မူသဖြင့် ဗေဒင်ပညာ တတ်လိုသောကြောင့် ကိုရင်ဝတ်ခဲ့ရသည်ဟု လယ်တီဆရာတော်ဘုရားကြီးကိုယ်တိုင် မိန့်တော်မူခဲ့ပါသည်။ တို့များ ငယ်စဉ်က လယ်ထွန်ပြီး ဗေဒင်ဆရာ လုပ်စားတော့မလို့၊ နားလည်တဲ့ ဆရာတော်ကြီးတွေ ကယ်လိုက်လို့ ဗေဒင်ဆရာ မဖြစ်ရတာဟု ပြန်လည်မိန့်ကြားတော်မူဖူးကြောင်းကို သာသနာ့အကျိုးတော်ဆောင် ကျမ်းပြုဆရာကြီး လယ်တီဦးလှပိုင်ထံမှ ကြားသိခဲ့ရဖူးပါသည်။

၁၈၆၂ အေဒီ ၁၈၆၂ အသက် ၂၄ နှစ်အရွယ်သို့ ရောက်သောအခါ မောင်မြတ်သာထွန်းက စဉ်းစားသည်မှာ ယခုအခါ ငါ၏မိခင်ကြီးလည်း စားရေးသောက်ရေးအတွက် ပူပင်စရာမလိုတော့ စိတ်ချရပြီဟု တွေးမိသည်ဟု ဆိုပါသည်။ ထို့ကြောင့် မိခင်ကြီးထံ ခွင့်တောင်း၍ အသက် ၂၄ နှစ်အရွယ်တွင် ရဟန်းအဖြစ် သို့ ရောက်တော်မူခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး။ အဂ်ပူ မဟာထေရုပ္ပတ္တိ၊ စာ ၁၀၄)

၁၈၆၂ အတိအကျပြောရလျှင် အေဒီ ၁၈၆၂ (၁၂၂၄ ခု တပေါင်းလပြည့်နေ့) ထိမ်တောရွာဇာတိဖြစ်သော ဒေါ်ညိုလေး၏ ပစ္စယာနုဂ္ဂဟဖြင့် ထိမ်တောတိုက်ကြီးကုန်း ဆရာတော်ဦးဇယန္တကို ဥပဇ္ဈာယ်ဆရာပြု၍ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်တော်မူခဲ့ကြောင်း သိရပါသည်။ ရဟန်းဖြစ်တော်မူသောအခါ ဘွဲ့တော်မှ အရှင်ပဏ္ဍိစ္စာဘိဝံသဟူ၍ဖြစ်ကြောင်း သိရပါသည်။

(ကျမ်းကိုး။ အဂ်ပူ မဟာထေရုပ္ပတ္တိ၊ စာ ၁၀၄)

၁၈၆၇ အေဒီ ၁၈၆၇ ခု၊ (၁၂၂၉ ခု) အထိ ထိုစဉ်က ဥပဇ္ဈာယ်ဆရာတော်ဖြစ်တော်မူသော ဦးဗျားကြီးထံ၌ ၅ ဝါ၊ သီတင်းသုံးတော်မူခဲ့ကြောင်း၊

၁၈၇၀ အေဒီ ၁၈၇၀ ခု (၁၂၃၂ ခု) အထိ စစ်ကွင်းမြို့ ကုသိန္နာရုံဆရာတော် ဦးပညာထံ၌ ၃ ဝါ၊ သီတင်းသုံးခဲ့ကြောင်း၊

၁၈၇၄ အေဒီ ၁၈၇၄ ခု ( ၁၂၃၆ ခု) အထိ ၎င်းနောက်မန္တလေးမြို့ ဘုရားကြီးကျောင်းတိုက်တွင် ၄ ဝါ သီတင်းသုံးခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး။ အဂ်ပူ မဟာထေရုပ္ပတ္တိ၊ စာ ၁၀၄)

ပုသိမ်မြို့ မိဂဒါရုံ ဆရာတော်ဘုရား စံလွန်တော်မူပြီးနောက် မဟာဒွါရ နိကာယ ဥက္ကဋ္ဌ စတုတ္ထ သာသနာပိုင်အဖြစ်သို့ ရောက်တော်မူ၏။

၁၉၃၂ ထိမ်တောရွာမ ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၃၂ မတ်လ ၂၁ရက်၊ (၁၂၉၃ ခုနှစ် တပေါင်း လပြည့်နေ့၊ တနင်္လာနေ့) ည ၇ နာရီ ၄၅ မိနစ် အချိန်တွင် တစ်ဘဝခန္ဓာကို ရုပ်သိမ်းတော်မူ၍ ခန္ဓာဝန်ချတော်မူသည်ဟု သိရပါသည်။

ထိုသို့ သီတင်းသုံးတော်မူသော ၁၁ ဝါ ကာလပတ်လုံးတွင် ပါဠိ အဋ္ဌကထာ၊ ဋီကာတို့ကို ကျနစွာသင်ကြားတော်မူခဲ့ကြောင်း သိရပါသည်။ ၎င်းနောက် ထိမ်တောရွာမ ကျောင်းတိုက်ကြီးကို တည်ထောင်တော်မူကြောင်း သိရှိရပါသည်။

ထိမ်တောရွာမဆရာတော်ကြီး ပြုစုခဲ့သော ယခုအခါတွင် ကော်ပီမူအဖြစ်သာ ကျန်ခဲ့ကြောင်း စာမူတို့သည် လုံးဝ ပျောက်ကွယ်လျက်ရှိကြောင်း၊ ထို့ကြောင့် အမည်နာမတို့ကိုသာလျှင် ဖော်ပြနိုင်ကြောင်း သိရှိရပါသည်။

ဆရာတော်၏ အလေ့အကျင့်များမှာ အလွန်ထူးခြား အတုယူဖွယ်ကောင်းလှပါသည်။



ဆရာတော်သည် ခုတင်ညောင်စောင်းဖြင့် မကျိန်းစက်၊ ထိုင်သည့်နေရာတွင်ပင် ကျိန်းစက်တော်မူ၏။ အိပ်ရာဝင်၊ အိပ်ရာထတွင်လည်း ဆရာတော်သည် မှန်မှန် တရား ဝတ်တက်၏။ ဆရာတော်သည် ရွတ်ဖတ်သရဇ္ဈာယ်၏။ သင်္ကန်းကိုလည်း တစ်နှစ်ကြာမှ တစ်ခါလဲလှယ်ဝတ်ရုံတော်မူ၏။

(ကျမ်းကိုး၊ ဆန်းယဉ် ထိမ်တော၊ စာ ၁၇ )

ဆရာတော်၏ ထူးခြားချက်မှာ ငွေကြေးပမာဏကို မသိ၊ မူးစေ့၊ ကျပ်စေ့များကို မခွဲခြားတတ်၊ ရသမျှ လှူဖွယ်ပစ္စည်းများကို ဘဏ္ဍာစိုးအား လွှဲအပ်ကာ ကျက်သရေ ဆောင်ထဲသို့သွင်းထားစေ၏။ ကျောင်းတွင် လှူဒါန်းထားသော ပိတ်စများကိုကား ကျောင်းသားများအား အင်္ကျီချုပ်ရန် ဝေပေးလေ့ရှိ၏။ ဝိနည်း သိက္ခာပုဒ်တော်ကို လည်း ရိုသေလေးစား၏။

(ကျမ်းကိုး၊ ဆန်းယဉ် ထိမ်တော၊ စာ ၁၇ )

**ဆရာတော်၏ တပည့်ဖြစ်သူ ဦးပါသာဒိက (ကြို့ပင်သာ) ဆရာတော်က အမှုမဲ့ အမှတ်မဲ့ တံတွေးထွေးမိလိုက်သည့်အတွက် ဆရာတော်သည် ဒေါသဖြစ်ကာ ဝိနည်းတော်ကို မလေးစားရကောင်းလားဟု ယခုတိုင် အသက်ထင်ရှားရှိသော ဆရာကြီးဦးမောင်အေးတပြောဖူး၏။**

(ကျမ်းကိုး၊ ဆန်းယဉ် ထိမ်တော၊ စာ ၁၇ )

## ပျောက်ဆုံးနေသော စာမူများ

ထိုကျမ်းစာ အမည်များမှာ ဓုတင်္ဂဝိနိစ္ဆယကျမ်း၊ ဒသသီလဝိနိစ္ဆယကျမ်း၊ သီမဝိနိစ္ဆယကျမ်း၊ အဋ္ဌင်္ဂသီလ ဝိနိစ္ဆယကျမ်း၊ ဝိနယဝိနိစ္ဆယကျမ်း၊ အဋ္ဌင်္ဂသီလ ဝိနိစ္ဆယကျမ်း၊ ဝိနယ ဝိနိစ္ဆယကျမ်း၊ ဝဿပနာယိက ဝိနိစ္ဆကျမ်းတို့ဖြစ်ပေသည်။ ထိုကျမ်းတို့ကား ကော်ပီမူအဖြစ်သာကျန်ခဲ့၍ ကာလ ကြာညောင်းလေသောကြောင့် စာမူတို့သည် လုံးဝပျောက်ကွယ်သွားရှာလေပြီဖြစ်၍ အမည်မျှသာ ထုတ်ဖော်ပြနိုင်ပါတော့သည်။

(ကျမ်းကိုး၊ အကျယ်သိလိုသူများသည် ထိမ်တောသိဗ္ဗိကာရုံကျောင်းတိုက်ဘုန်းတော်ကြီး ရေးသားစီစဉ်သော မူလဗ္ဗါရ မဟာနိကာယ စတုတ္ထဒွါရ သာသနာပိုင် ဆရာတော်ကြီး ထေရုပ္ပတ္တိအကျဉ်းချုပ်ကိုလည်းရှာဖွေဖတ်ရှုသင့်ပါသည်။ ၎င်းအပြင် ထိမ်တော ဆရာတော်ဘုရားကြီး၏ အင်္ဂပူမဟာထေရုပ္ပတ္တိ၊ စာ ၃၀၃၊ ၃၀၄ တို့တွင်လည်း ရှာဖွေ တွေ့ရှိရပါသည်။ ထိုစာမှာ ပန်းတောင်းမြို့ ဆုတောင်းပြည့်ကျောင်းတိုက် ဆရာတော် ဘုန်းတော်ကြီး၏ မှတ်ချက်တွင် ၁၅-၁၀-၁၆ ဟူ၍ တွေ့ရရာ ထိုစာပြုစုသောနှစ်ပင် ဖြစ်လိမ့်မည်ဟုမှန်းဆရပါသည်။)

(ကျမ်းကိုး၊ သီလဝ ဘာသာရေးမဂ္ဂဇင်း ၁၉၉၆ ခု အမှတ် (၇) ၊ အတွဲ (၂)တွင်လည်း သာသနာ့အကျိုးဆောင် စာရေးဆရာ ဦးအောင်ခင်(ပုပ္ပါး) ကလည်း စာမျက်နှာ ၅၂ - ၅၄ တို့တွင် ရေးထားကြောင်း ဖတ်ရှုရပါသည်။ အံ့သြကြည်ညိုဖွယ်အချက်တို့ကို ဖော်ပြထားသဖြင့် မှတ်တမ်းတင်သူများကို ကျေးဇူးစကား ဆိုရပါမည်။)

ယနေ့တိုင် ရုပ်ကလာပ်ကြွင်းကျန်နေသေးသော

မဃဒေဝလင်္ကာကြီး စာပြု စာဆို ပုဂ္ဂိုလ်ကျော်

# မန်လည်ဆရာတော်

အေဒီ ၁၈၄၁- ၁၉၂၀ ( ၁၂၀၃ - ၁၂၈၂ )





မန်လည်မြို့သည် စစ်ကိုင်းတိုင်းဒေသကြီး၊ အင်းတော်မြို့နယ်အတွင်း ပါဝင်ပါသည်။ မန္တလေး-မြစ်ကြီးနား မီးရထားကိုစီး၍သွားလျှင် မဲဇာဘူတာကျော်လွန်သွားသောအခါ ဆည်ရွာဟူသော ဘူတာကို ရောက်ပါသည်။ ထိုဘူတာမှဆင်းပြီးလျှင် အနောက်ဘက်သို့ ခရီး(၂)မိုင်ခန့်ဝေးသောနေရာတွင် မဲဇာမြစ်ဟူ၍ ရှိပါသည်။ ထိုမဲဇာမြစ်၏ မြစ်ကမ်းပါးတွင် မန်လည်တည်ရှိပါသည်။

မန်လည်ဆရာတော်ဘုရား၏ မပျက်မစီးကြွင်းကျန်သော ရုပ်ကလပ်တော်ကို ယခုတိုင် ဖူးမြင်နိုင်ပါသေးသည်။ ဤသည်မှာ စာပေသိက္ခာသာမက သီလပညာ၊ သမာဓိ ပညာတို့ဖြင့် ပြည့်စုံ၍ ဘဝကို အရှင်ကူးသွားသော မယဒေဝလင်္ကာ စာဆိုတော်ကြီး၏ ထူးခြားမှု ဂုဏ်ရည်ဖြစ်ပါသည်။

၁၉၄၆ မန်လည်ဆရာတော်ဘုရား၏ မပျက်မစီး ကြွင်းကျန်သော ရုပ်ကလာပ်ကို ပထမ ဆောက်လုပ်လှူဒါန်းသော ပုဂ္ဂိုလ်တို့မှာ နားခါးရွာနေ ဦးခေါင်နှင့်ဦးကြီးညို တို့ဖြစ်ကြောင်းသိရပါသည်။ ထိုပြာသဒ်တော်ကြီးသည် အေဒီ ၁၉၄၆၊ (၁၃၀၈ ခုနှစ်) မြေငလျင်ဒဏ်ကြောင့် ပြိုကျသွားကြောင်းသိရပါသည်။

(ကျမ်းကိုး၊ မဟာသုတကာရီ မယဒေဝလင်္ကာသစ်၊ နိဒါန်း၊ စာ၊ ကာ )

၁၉၇၅ ထိုအခါ အေဒီ ၁၉၇၅ ဖေဖော်ဝါရီလ ၂၅ ရက် အင်္ဂါနေ့ (၁၃၃၆ ခု တပို့တွဲလပြည့်နေ့)တွင် အသစ်လှူဒါန်းပူဇော်ခဲ့ကြပါသည်။ တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက အသျှင်ဝိစိတ္တသာရာဘိဝံသ မင်းကွန်းဆရာတော်ကိုယ်တိုင် ဦးဆောင်ဦးရွက်ပြု၍ အနယ်နယ်မှ ကုသိုလ်ရှင်များ ပါဝင်ပြီးလျှင် လှူဒါန်းပူဇော်ခြင်းဖြစ်ပါသည်။ အလွန်ထူးခြားသောကြောင့်သာ တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက အသျှင်ဝိစိတ္တသာရာဘိဝံသ ဆရာတော်ကြီးကိုယ်တိုင် ဦးဆောင်ဦးရွက်ပြုခြင်း ဖြစ်ပေလိမ့်မည်။

(ကျမ်းကိုး၊ မဟာသုတကာရီ မယဒေဝလင်္ကာသစ်၊ နိဒါန်း၊ စာ၊ ကာ )

မန်လည်ဆရာတော်ဘုရားကြီး ပျံလွန်တော်မူပြီးသည့်နောက် အလောင်းတော်ကို အုတ်ဂူသွင်းခဲ့ကြောင်းသိရပါသည်။ ဆရာတော်၏ အလောင်းတော်ပွဲ ကျင်းပစဉ်အခါက ဆရာတော်၏ တပည့်ဖြစ်သူ ဦးဘရင်ကဆရာတော်၏ အလောင်းကို ဂူမှထုတ်ကြည့်ခွင့်ပေးရန် လျှောက်ထားကြောင်းသိရပါသည်။ ထိုအခါ ဒုတိယမန်လည်ဆရာတော် ဦးဖြိုးကလည်း ဂူသွင်းပြီးသားဖြစ်သောကြောင့် ဂူက ပြန်မထုတ်ချင်ပါနှင့်ဟု တားမြစ်ကြောင်းသိရပါသည်။

သို့သော်လည်း တပည့်ရင်းဖြစ်သူ ဦးဘရင်၏ သဒ္ဓါတရားကို ထောက်ထား၍ ဆရာတော်ဖြိုးက ဂူမှ အလောင်းတော်ကို ထုတ်ကြည့်ခွင့်ပြုကြောင်း သိရပါသည်။ ထိုအချိန်အခါတွင် အလောင်းတော်ကို ဂူသွင်းထားသည်မှာ သုံးလရှိပြီဖြစ်ကြောင်းသိရပါသည်။ သို့သော်လည်း အလောင်းတော်ကို ဂူမှ ထုတ်လိုက်သောအခါ ပုပ်သိုးခြင်း၊ နံစော်ခြင်း လုံးဝမရှိဘဲ ကျိန်းစက်နေသကဲ့သို့ပင် ပကတိအတိုင်း ဖူးမြင်ကြရကြောင်း သိရပါသည်။

ထိုအခါ လူအပေါင်းတို့မှာ အုတ်အုတ် ကျွက်ကျွက်ဖြစ်သွားကြောင်း၊ ထို့ကြောင့် အလောင်းတော်ကို တစ်ဖန်ပြန်၍ ဂူသွင်းခြင်း၊ မီးသဂြိုဟ်ခြင်း မပြုတော့ဘဲ ကျောက်ခေါင်းဖြင့်ထည့်၍ စံကျောင်းဖြင့် ပြသထားရန် ဆုံးဖြတ်ကြကြောင်းသိရပါသည်။

လာရောက်ဖူးမြော်ကြသော လူအပေါင်းတို့က ရောက်တိုင်းရောက်တိုင်း ကျောက်ခေါင်းကြီးကို ဖွင့်၍ဖွင့်၍ ကြည့်ကြသဖြင့် အများအလွယ်တကူ ဖူးနိုင်အောင်ဟု ပထမ ကျောက်ခေါင်းမှ မှန်ခေါင်းသို့ ပြောင်းလဲကာ အပူဇော်ခံထားကြောင်း သိရပါသည်။

(ကျမ်းကိုး၊ မောင်မိုးငည်၊ မန်လည်တစ်ခေါက်၊ ဂမ္ဘီရမဂ္ဂဇင်း၊ စာ)



၁၉၄၆ ပထမဆောက်လုပ်လှူဒါန်းသော နားခါစွာ ဦးဖောင်နှင့် ဦးကြီးညိုတို့ အမှူးပြုလှူဒါန်းသော ထိုပြာသဒ်တော်ကြီးသည် အေဒီ ၁၉၄၆ ခု၊ (၁၃၀၈ ခုနှစ်) မြေငလျင်ဒဏ်ကြောင့် ပြိုကျခဲ့သဖြင့် မိုးကုတ်ဒါယကာများနှင့် မိုးကောင်း ဒါယကာများကြီးမှူးပြီးလျှင် အနယ်နယ်မှ ကုသိုလ်ရှင်များ၏ ဒါနဖြင့် ယခုအုတ်စံကျောင်းတော်ကို ဆောက်လုပ်လှူဒါန်းကြောင်းသိရပါသည်။

(ကျမ်းကိုး၊ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်၊ နိဒါန်း၊ စာ၊ ကာ )

မန်လည်ဆရာတော်၏ မပျက်မစီးသော ရုပ်အလောင်းတော်ကြီးရှိရာ နေရာတွင် ပြတိုက်ကြီးသဖွယ်ပြသထားကြသော ပစ္စည်းများထဲတွင် မန်လည်ဆရာတော်ဘုရား၏ အသုံးအဆောင်များ ရုပ်တုများ၊ ပန်းချီကားများ၊ စာအုပ်စာတမ်းများ များစွာရှိပါကြောင်းသိရပါသည်။ ထိုထိုသော မြင်ကွင်းများအလယ်တွင် မန်လည်ဆရာတော်၏ သူငယ်ချင်းဖိုးမြရာဆိုသူ၏ ရုပ်တုမှာလည်းအလွန်ထူးခြားစွာ တွေ့မြင်ရပါသည်။

မဃဒေဝလင်္ကာကြီးဖြင့် မြန်မာစာပေသမိုင်းတွင် ဟိုးဟိုးကျော်ခဲ့သော စာပြုစာဆိုပုဂ္ဂိုလ်ကျော်ကြီး၏ ဘဝရုပ်ပုံလွှာမှာ လောကီလောကုတ္တရာ အသိထူးအမြင်ထူးများဖြင့် ပြည့်စုံသော ပုဂ္ဂိုလ်ဖြစ်ကြောင်းသိနိုင်ပါသည်။

## မန်လည်ဆရာတော်ဘုရားကြီး

မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကို စီရင်သူ ကျေးဇူးရှင် ကဗျာစာဆိုတော် မန်လည်ဆရာတော်၏ မပျက်မစီးကြွင်းကျန်ရစ်သော ရုပ်ကလာပ်တော်သည် ယနေ့တိုင် မပျက်မစီး ရှိနေပါသေးသည်။

၁၉၂၀ မန်လည်ဆရာတော်သည် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့သည်မှာ ကြာပါပြီ။ အေဒီ ၁၉၂၀ စက်တင်ဘာလ ၂၅ရက် (၁၂၈၂ ခုနှစ်၊ တော်သလင်းလဆန်း ၁၃ ရက်နေ့) နံနက် ၁ နာရီ ၃၀မိနစ် အချိန် သက်တော် ၇၉ နှစ်။ သိက္ခာတော် ၅၆ ဝါအရတွင် ပျံလွန်တော်မူခဲ့ပါသည်။

၁၈၄၁ မန်လည်ဆရာတော်ကို အေဒီ ၁၈၄၁ (သက္ကရာဇ် ၁၂၀၃ ခုနှစ်၊ တန်ခူးလဆန်း ၁၂ ရက်နေ့) ညဉ့် ၃ ချက်တီးကျော်၊ ဝိသာခါနက္ခတ် မွန်းတည့်ချိန်တွင် မန်လည်မြို့၌ ဖွားမြင်ခဲ့ပါသည်။ ထို့ကြောင့် သီပေါမင်း ပါတော်မူသောအခါမှာ ဆရာတော် အသက်တော် ၄၄ နှစ်ရှိနေခဲ့ပါပြီ။

မန်လည်ဆရာတော်သည် ဘင်္ဂလီ၊ နာဂရီ၊ သီဟိုဠ်ဘာသာ စသော ဘာသန္တရကျမ်းများကိုလည်းကောင်း၊ ဇာတ်နိပါတ် ရာဇဝင်၊ ဗေဒင်ကျမ်း၊ ဆေးကျမ်း၊ ဓာတ်ကျမ်း၊ နက္ခတ်ကျမ်း၊ အင်္ဂရတ်ကျမ်းများနှင့်တကွ တတ်သင့်တတ်ထိုက်သော ပညာဗဟုတ သိပ္ပာယတနများကိုလည်းကောင်း တစ်ဖက်ကမ်းခတ်အောင် တတ်မြောက်တော်မူပါသည်။

၁၈၉၇ အေဒီ ၁၈၉၇ (၁၂၅၉ ခုနှစ်)တွင် အိန္ဒိယပြည် လပ်ကနောင်းမြို့ ပြည်နယ် ပြတိုက်မှ ပြတိုက်မှူးနှင့် အတွင်းရေးမှူးဖြစ်သူ ဒေါက်တာအေဖြူရာ (Dr. A. Fuher, Ph.D) ထံမှ တစ်ဆင့် ကပိလဝတ်ပြည် စေတီတော်ကြီးအတွင်းမှ ဗုဒ္ဓဒန္တဟု အမိပ္ပာယ်ရသည့် နာဂရီစာဖြင့် ရေးသားထားသော ဗုဒ္ဓအံတော်အစစ်ကို လက်ခံရရှိခဲ့ပါသည်။

၁၈၉၂-၁၉၁၉ အံတော်ကို မန်လည်မြို့ ပြာသဒ်ကျောင်းအတွင်း အေဒီ ၁၈၉၂ (၁၂၅၄ ခုနှစ်)က



တည်ထားခဲ့သော ဉာဏ်တော် ၇၈ တောင်ရှိ တာဝတိံသာ မဟာအာဘယ စူဠာမုနိ စေတီတော် အနောက်မုခ်တွင် အေဒီ ၁၉၁၉ (၁၂၈၁) ခုနှစ်၊ ပြာသိုလတွင် ဌာပနာတော်မူခဲ့ပါသည်။

၁၉၁၇ အင်္ဂလန်ပြည် ပဥ္စမမြောက် ဂျော့ဘုရင် လက်ထက်တွင် အိန္ဒိယဘုရင်ခံချုပ် ချမ်းစီဖို့က ကြည်ညို လေးမြတ်တော်မူသဖြင့် အေဒီ ၁၉၁၇ (၁၂၇၉) ခုနှစ် တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းပူဇော်ခဲ့ပါသည်။

ငယ်နာမည်ကား ဦးမာ၊ ပုသိန် ဦးပဒုမအား ရေးသားသော စာအချိုးတွင် 'မာန်မလုပ်ချင်ဘူး။ မာန်လုပ်လျှင် လွယ်သည်သာပ၊ ငယ်မည်မှာ နကိုသတ်ရုံပဲ၊ နေရပ်ကယ့် ရွှေမန်လည်နှင့်'ဟု ဆရာတော်ကြီးသည် သူ၏ငယ်မည်နှင့် နေရပ်ကို ထုတ်ဖော်ရေးသားထားလေသည်။

(ကျမ်းကိုး၊ ပါရဂူ၊ မန်လည်ဆရာတော်၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၇ ခု၊ စာ ၁၈-၂၂)

ဖခင်ဖြစ်သူ သစ်ကုန်သည်ကြီး ဦးထင်ညိုနှင့် မိခင်ဖြစ်သူ ဒေါ်ဖြေတို့သည် မန်လည်ဆရာတော်လောင်း သူငယ်အား ဆယ့်နှစ်နှစ်အရွယ်တွင် ဝန်းသိုစော်ဘွား၏ နောင်တော်ဖြစ်သူ ဝန်းသိုမြို့တောင်ပေါ် ကျောင်းဘုန်းကြီး ဦးပန်းအောင်ထံ အပ်နှံ၍ စာပေသင်ကြားဆည်းပူးစေလေသည်။ သူငယ်သည် ဆယ့်ခြောက်နှစ်မတိုင်မီကပင် ကဗျာအဖွဲ့အနွဲ့ ဝါသနာပါသောကြောင့် ရှေးဦးပညာရှိများရေးသား စပ်ဆိုသည့် ကဗျာလင်္ကာများကို လေ့လာပြီးလျှင် ဒွေးချိုး၊ လေးချိုး၊ တေးထပ်စသော ကဗျာများကို စာသင်ရေးသားစပ်ဆိုခဲ့လေသည်။ ဆယ့်ခြောက်နှစ်အရွယ်တွင် ဝန်းသိုမြို့ပေါ် ကျောင်းဘုန်းကြီးထံ၌ပင် ရှင်သာမဏေပြုလေသည်။ ရှင်သာမဏေဘွဲ့မည်ကား ရှင်ဇဝနဖြစ်၏။ ရှင်သာမဏေရှင်ဘဝဖြင့်ပင် ပါဠိအဋ္ဌကထာဋီကာကျမ်းများကို သင်ကြားတတ်မြောက်လေသည်။

(ကျမ်းကိုး၊ ယင်း စာ ၁၈)

၁၈၆၄ အေဒီ ၁၈၆၄ ၊ ၁၂၂၅ ခုနှစ်တွင် ရဟန်းခံလေ၏။ မန်လည်ဆရာတော်သည် အသက် ၂၂ နှစ် သာသာရှိမှ (နှစ်လွန်မှ)ရဟန်းဖြစ်လေသည်။

ရဟန်းဖြစ်၍ တစ်ဝါရှိသောအခါ မူလရဟန်းခံခဲ့သည့် သိမ်ကို ဝိနည်းစည်းကမ်းအရ သံသယမကင်းသည်နှင့် မဲဇာမြစ်အတွင်း ရေသိမ်၌ ဒုတိယအကြိမ် ရဟန်းခံပြန်လေသည်။

ဒုတိယအကြိမ် ရဟန်းခံသည့်နှစ်မှ စတင်၍ မိမိ၏ရဟန်းဝါကို အတည်ပြုလေသည်။ ပထမအကြိမ် ရဟန်းခံသည့်အချိန်က ရရှိသည့် ရဟန်းဝါကို အသိအမှတ်မပြုတော့ပေ။

(ကျမ်းကိုး၊ ယင်း စာ ၁၉)

ရဟန်းသုံးဝါမြောက်တွင် မန္တလေးမြို့ အနောက်ပြင် ထီးလင်းတိုက်၌ ဝါဆို၍ မန်လည်မြို့ဝန် မင်းထင်မင်းလှသမန္တရာဇာ လှူဒါန်းသော ပိဋကတ်တော်များကို ကြီးကြပ်ကူးယူရေးသားလေ၏။ ထိုနောက် မန်လည်မြို့နေရင်း လေးထပ်ကျောင်းသို့ ပြန်ကြွပြီးလျှင် စာသင်သားများအား စာပေပို့ချခြင်း ကျမ်းဂန်ရေးသားခြင်းများကို ပြုလုပ်နေလေ၏။



ရဟန်းဆယ်ဝါမြောက်သောအခါ သာမဏေဘဝက သင်ကြားခဲ့သည့် မဃဒေဝ ဇာတ်တော်ကို ကြည်ညိုနှစ်သက်ရင်းစွဲရှိသည့် မဃဒေဝဇာတ်ကို ပျို့ကဗျာ လင်္ကာဖြင့် ဖွဲ့ဆိုသည့် မဃဒေဝလင်္ကာသစ်ကို စတင်ရေးသားလေသည်။ သို့ရာတွင် ထိုအချိန်၌ မဃဒေဝလင်္ကာသစ်မှာ ဆုံးခန်းသို့ မရောက်ခဲ့ပေ။

(ကျမ်းကိုး၊ ယင်း စာ ၁၉)

၁၉၀၅ ထို့နောက် နှစ်အတန်ကြာ အေဒီ ၁၉၀၅ (၁၂၆၆ ခုနှစ်)ကျမှ ရေးလက်စ မဃဒေဝ လင်္ကာသစ်ကို အပြီးသတ်အချောကိုင်နိုင်ခဲ့၏။

၁၈၈၁ ထိုအတွင်း အေဒီ ၁၈၈၁ ခု (၁၂၄၃ ခုနှစ်)တွင် မင်းကွန်းတောရဆရာတော် အရှင် ပဏ္ဍဝံသက ပုစ္ဆာ ၄၅ ချက်ကို ကဗျာသီကုံး၍ မေးသည်တွင် မန်လည်ဆရာတော်က ပြန်လည်ဖြေကြားတော်မူလေသည်။ ထိုအမေးအဖြေကျမ်းသည် 'ပဥ္စစတ္တာလီသ ပုစ္ဆာသဋ္ဌနာ' ကျမ်းအမည်ဖြင့်ထင်ရှား၏။ တစ်ဖန် မန်လည်ဆရာတော်က ပုစ္ဆာ အပေါင်းတစ်ရာကိုမေးပြန်ရာ မင်းကွန်းတောရဆရာတော်က ပြန်လည်ဖြေကြား တော်မူသည်။ ထိုကျမ်းကို 'သတပဒိက ပုစ္ဆာသဋ္ဌနာကျမ်း'ဟုခေါ်၏။

(ကျမ်းကိုး၊ ယင်း စာ ၁၉)

၁၈၈၉ အေဒီ ၁၈၈၉ (၁၂၅၀ ပြည့်နှစ်)၌ မန်လည်မြို့ဝန်မင်းထင်မင်းလှ သမန္တရာဇာက ဘုံခုနစ်ဆင့်ရှိသော ပြာသဒ်ကျောင်းကြီးကို ဆောက်လုပ်ပြီးလျှင် မန်လည်ဆရာတော်အား လှူဒါန်းလေသည်။

ထိုကျောင်းကို အစွဲပြု၍ မန်လည်ဆရာတော်သည် မန်လည် မြို့ပြာသဒ် ကျောင်းကြီး ဆရာတော်ဟူ၍ ထင်ပေါ်ကျော်စောလာလေသည်။

ကျောင်းဒါယကာ မင်းထင်မင်းလှသမန္တရာဇာလျှောက်ထား တောင်းပန်သည် ဖြစ်၍ ဆရာတော်ကြီးသည် 'ဂတိဝိသောဓနီ'ကျမ်းကို ရေးသားလေသည်။ မြတောင် မင်းကြီး တောင်းပန်လျှောက်ထားသည့်အတွက်ကြောင့်လည်း 'ဒိဋ္ဌိဝိသောဓနီ ဝဇီရဂ္ဂဒီပနီ'ကျမ်းကို ရေးသားလေသည်။ ကင်းဝန်မင်းကြီးသည် မန်လည်မြို့မ ပြာသဒ်ကျောင်းသို့ နှစ်ကြိမ်တိုင်တိုင် လာရောက်ပြီး မန်လည်ဆရာတော်အား ဖူးတွေ့ ခဲ့လေသည်။

(ကျမ်းကိုး၊ ယင်း စာ ၁၉)

ဝိသုဒ္ဓါရုံဆရာတော်၊ လယ်တီဆရာတော်၊ မန်လည်ဆရာတော်တို့သည် ဓမ္မသဟာယ၊ ဓမ္မမဟာ မိတ်များဖြစ်ကြကုန်၏။ တစ်ပါးနှင့်တစ်ပါး မကြာခဏ စာတစ်တန် ပေတစ်တန်ဖြင့် တရားဆွေးနွေး ညှိနှိုင်းတော်မူကြကုန်၏။ မန်လည်ဆရာတော်သည် ဝိသုဒ္ဓါရုံဆရာတော်ကြီး တိုက်တွန်းသည့်အတွက် 'ဝဇီရူပဗျာကရဏကျမ်း'ကို ရေးသားတော်မူသည်။ လယ်တီဆရာတော် မေးမြန်းတော်မူသဖြင့် 'ပုစ္ဆာ ဝိသဋ္ဌနာကျမ်း'ကို ပြုစုတော်မူသည်။

(ကျမ်းကိုး၊ ယင်း စာ ၁၉)

၁၈၈၅ အင်္ဂလိပ်နယ်ချဲ့တို့သည် အေဒီ ၁၈၈၅ ခု (၁၂၄၇ ခုနှစ်) တွင် မြန်မာတို့နှင့် တတိယအကြိမ် စစ်ဖြစ်ပြီး အထက်မြန်မာနိုင်ငံကို သိမ်းပိုက်လိုက်ကြ၏။ သို့ရာတွင် မျိုးချစ်မြန်မာများမှာ အင်္ဂလိပ်နယ်ချဲ့ အုပ်စိုးမှုကိုမခံဘဲ အစွမ်းရှိသမျှ တော်လှန် ခြားနားနေကြ၏။



ထိုအချိန် မန်လည်ဆရာတော်သည် 'ရွှေပြည်အေး' တရားဟောသည်ဟု လယ်တီပဏ္ဍိတရေးသားသည့် 'မန်လည်မဟာထေရုပ္ပတ္တိကထာ' အရသိရှိရလေသည်။

အင်္ဂလိပ်အစိုးရကို အံတုသည့် မန်လည်ဝန်ကို မန်လည်ဆရာတော်က နယ်သူနယ်သားတို့၏ ငြိမ်းချမ်းသာယာရေးကိုရှေ့ရှုလျက် အင်္ဂလိပ်အစိုးရ လက်အောက်တွင် လက်နက်ချရန်နားချလေသည်။ မန်လည်ဝန်သည် မန်လည်ဆရာတော်၏ အမိန့်ကို နာခံလိုက်လေသည်။

(ကျမ်းကိုး၊ ယင်း စာ ၂၀)

ထို့ပြင် အင်္ဂလိပ်နယ်ချဲ့ကို ဖွဲ့ဆော်ဦး တော်လှန်သူတစ်ဦးဖြစ်သည့် တော်လှန်ရေးသမားကြီး ဝန်းသိုစော်ဘွားအားလည်း အားမတန်က မာန်ကိုလျှော့ရန် မန်လည်ဆရာတော်ကနားချလေသည်။ သို့ရာတွင် ဝန်းသိုစော်ဘွားကမူ မန်လည် ဆရာတော်၏အမိန့်ကိုမနာခံပေ။

(ကျမ်းကိုး၊ ယင်း စာ ၂၀)

ဆရာတော်ကြီးကား အင်္ဂလိပ်နယ်ချဲ့နှင့် မြန်မာမျိုးချစ်တို့၏ တိုက်ပွဲကြောင့် ဆင်းရဲ ဒုက္ခရောက်နေကြသည့် ပြည်သူလူထုကိုငဲ့ပြီး ယင်းကဲ့သို့ ပြုမူဟန်တူပေသည်။

မန်လည်ဆရာတော်ကြီးသည် မန္တလေးထီးလင်းတိုက်၌ တစ်ဝါ၊ ကသာမြို့၌ နှစ်ဝါ၊ ထီးချိုင့်မြို့၌သုံးဝါ၊ ပေါင်းခြောက်ဝါမျှသာ အခြားဌာနများ၌ သီတင်းသုံးဖူးပြီး ကျန်ဝါများကို မန်လည်မြို့၌သာ သီတင်းသုံးတော်မူ၏။

(ကျမ်းကိုး၊ ယင်း စာ ၂၀)

၁၉၁၉ အေဒီ ၁၉၁၉ ခု (၁၂၈၁ ခုနှစ်) တွင် ဆရာတော်ကြီးသည် အောက်ပြည် အောက်ရွာမြို့များသို့ ဒေသစာရီ လှည့်လည်တော်မူလေ၏။ စစ်ကိုင်း၊ ပခုက္ကူ၊ ပြည်၊ ဇလွန်၊ ပုသိမ်၊ ဟင်္သာတ၊ သာယာခြင်း၊ တရားဒေသနာ ဟောကြားခြင်းတို့ကို ပြုလုပ်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်း စာ ၂၀)

မင်းလှမြို့သို့ရောက်ခိုက် မန်လည်ဆရာတော်နှင့် လယ်တီဆရာတော်တို့ တွေ့ဆုံကြလေသည်။ ယင်းသို့တွေ့ဆုံခြင်းမှာ ဆရာတော်ကြီးနှစ်ပါး၊ ပထမဦးဆုံး တွေ့ဆုံခြင်းဖြစ်သည်။ ဆရာတော်ကြီးနှစ်ပါးသည် မင်းလှမြို့မှ ရန်ကုန်မြို့သို့ အတူတကွကြွလာကြလေသည်။

မန်လည်ဆရာတော်သည် ထိုင်ခြင်းဣရိယာပုတ်ဖြင့် မည်မျှကြာအောင် နေစေကာမူ ညောင်းညာသည်ဟူ၍မရှိ၊ ထိုင်ခြင်း ဣရိယာပုတ်ဖြင့်ပင် ကျိန်းစက်တော်မူသည်။

(ကျမ်းကိုး၊ ယင်း စာ ၂၀)

ပိဋကတ်သုံးပုံကို အပြန်ပြန် အလှန်လှန်ကြည့်ရှုခြင်း၊ စာသင်သားများအား စာပေပို့ချခြင်း၊ ကျမ်းဂန်များကို ရေးသားပြုစုခြင်း၊ သုတ္တန်များကို ရွတ်ဖတ်သရဇ္ဈာယ် ခြင်းများဖြင့်သာ ကုန်လွန်စေတော်မူသည်။

(ကျမ်းကိုး၊ ယင်း စာ ၂၀)



ဆရာစဉ်ဆက်တွက်လိုက်လျှင် မကာရလောပ မ,တစ်လုံးကျေတောင်တွင်း ဆရာတော်ခင်ကြီးပျော်သည် မန်လည်ဆရာတော်၏ ဆရာ့ ဆရာ ဖြစ်လေသည်။ ၁။ တောင်တွင်းဆရာတော်၊ ၂။ ဦးဇိန၊ ၃။ ဦးပညာ၊ ၄။ ဦးနန္ဒမာလ၊ ၅။ မန်လည်ဆရာတော် ဦးဇိနမှစ၍ မန်လည်ဆရာတော်အထိ ဆရာတော်ကြီး လေးပါးတို့သည် မန်လည်ကျောင်းတိုက်ကြီး၌ပင် သီတင်းသုံးတော်မူကြ၏။ တောင်တွင်း ဆရာတော်၏ တပည့်ရင်း ဦးဇိနမှစ၍ ရေတွက်လျှင် မန်လည်ဆရာတော်သည် စတုတ္ထမြောက် တပည့်ဖြစ်လေသည်။

(ကျမ်းကိုး၊ ပါရဂူ၊ မန်လည်ဆရာတော်၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၂၂၊ ငွေတာရီမဂ္ဂဇင်း ၁၉၆၈ ၊ ဒီဇင်ဘာလ အမှတ် ၁၀၂ ကိုလည်း ကြည့်ပါ။)

## ဘုံမြင့်မှပြန်၍ ဆင်းမလာတော့သော ထူးခြားသည့် မန်လည်ဆရာတော်၏ တပည့်ထူး ရဟန်းထူး ဦးဥတ္တမ

မန်လည်ဆရာတော်ဘုရားတွင် ဦးဥတ္တမဟူ၍ခေါ်ကြသောတပည့်တစ်ပါးရှိ၏။ ဦးဥတ္တမသည် ဘုရားပွင့်တော်မူသော မဇ္ဈိမဒေသသို့ ကြွသွားပြီးလျှင် မဟာဗောဓိပင်ကို ပင့်ဆောင်တော်မူခဲ့ကြောင်း သိရပါသည်။

၁၈၉၀ ထိုနှစ်မှာ အေဒီ ၁၈၉၀ (၁၂၅၂ ခုနှစ်) ဖြစ်ကြောင်းသိရပါသည်။

၁၈၉၁ မင်းတုန်းမင်း၏ သားတော် ညောင်အုပ်မင်းသားဟူ၍ရှိသေး၏။ ထိုညောင်အုပ်မင်းသားသည် မဟာဗောဓိပင်အား ပင့်ဆောင်ခဲ့ကြောင်း အေဒီ ၁၈၉၁ (၁၂၅၃) ခုနှစ် ဒုတိယ ဝါဆိုလဆန်း ၃ရက်၊ ဗုဒ္ဓဟူးနေ့ မွန်းလွဲ ၃ ချက်တီး အချိန်တွင် ထိုမဟာဗောဓိပင်ကို စိုက်ပျိုးခဲ့ကြောင်း ထပ်ဆင့်သိခဲ့ရပါသည်။

ထိုမဟာဗောဓိပင်ကို ပင်ပို့အဖြစ် ပင့်ဆောင်လာခဲ့သူမှာ ဦးဥတ္တမကိုယ်တော်ကြီးဖြစ်ကြောင်းပြောခဲ့ပြီးဖြစ်ပါသည်။ ထိုဦးဥတ္တမကိုယ်တော်ကြီးသည် အင်္ဂလိပ်ဝင်စလောက်က ကသာမြို့တွင်ရှိ၏။ ကသာတွင် လေသာကျောင်းဟူ၍ ကျောင်းတစ်ကျောင်းရှိ၏။ ထိုလေသာကျောင်းတွင် ကျောင်းထိုင်သော ဦးဥတ္တမမှာ မန်လည်ဆရာတော်၏ တပည့်ဖြစ်ကြောင်း အများသိပြီးဖြစ်ပါသည်။

ထိုဦးဥတ္တမကိုယ်တော်သည် ထိုကျောင်းမှတစ်ဖန် တောင်ပေါ်ကျောင်းသို့ ပြောင်းရွှေ့ပြန်သည်။ ပြောင်းရွှေ့ရသည်မှာလည်း တခြားကြောင့်မဟုတ်။ ထိုလေသာကျောင်းကို အင်္ဂလိပ်တို့က စစ်တပ်နေရာအဖြစ် အသုံးပြုလိုသောကြောင့်ဖြစ်ပါသည်။ ထိုအခါ ဦးဥတ္တမကိုယ်တော်ကြီးသည် ထိုကျောင်းကို စွန့်လွှတ်ပြီး တောင်ပေါ်ကျောင်းသို့ ပြောင်းရွှေ့သွားလေသည်။

ဆိုလိုရင်းမှာ ထိုအချက်မဟုတ်ပါ။ ဦးဥတ္တမ၏ ကိုယ်တော်ကြီးသည် အင်္ဂလိပ်ရတ်ပညာ အလွန်ဝါသနာပါသောကြောင့် ထွက်ရပ်ပေါက်ပညာကို ဝါသနာထုံကြောင်း သိရပါသည်။ ဦးဥတ္တမကိုယ်တော်ကြီးသည် အချိန်ရတိုင်း ရတိုင်း ဖိုထိုးလေ့ရှိကြောင်း ပြောကြပါသည်။

ဖိုထိုးရာတွင်လည်း အလွန်ဆန်းပါသည်။ လူမမြင်အောင်ဟူ၍ သီတင်းသုံးသော ကျောင်း၏ ဘုံဆောင်အမြင့်ပေါ်တွင်တက်၍ ဖိုထိုးလေ့ရှိသည်ဟုဆိုပါသည်။



ပို၍ဆန်းသောအချက်မှာ တစ်နေ့သောအခါ ထိုသို့ဖိုထိုးရန် ဦးဥတ္တမကိုယ်တော်ကြီးသည် ဘုံဆောင်သို့ တက်သွားပြီးလျှင် နောင်သောအခါ ဘယ်တော့မှ ပြန်၍ဆင်းမလာတော့ခြင်းဖြစ်ပါသည်။ ဘုံဆောင်ပေါ်တက်၍ ရှာသော်လည်းမတွေ့ရတော့ပါ။ ဖိုကိုသာတွေ့ရပါတော့သည်။ ထို့ကြောင့် အားလုံးကပင်လျှင် ဦးဥတ္တမကိုယ်တော်ကြီးသည် ဖိုထိုးရင်း ဝိဇ္ဇာဖြစ်၍ အရှင်ထွက်ထွက်သွားကြောင်း ယနေ့တိုင် ပြောစမှတ်ပြု၍နေပါတော့သည်။ ဦးဥတ္တမကိုယ်တော်ကြီးနှင့် စပ်လျဉ်း၍ မန်လည်ဆရာတော်ကြီး၏ တပည့်ထူးဖြစ်၏။

(ကျမ်းကိုး။ မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၁၃)၊ ၂၇-၆-၂၀၀၅)

## မန်လည်ဆရာတော်နှင့် လယ်တီဆရာတော်တို့ ပထမဦးဆုံးအကြိမ်နှင့် နောက်ဆုံးအကြိမ် တွေ့ဆုံခြင်း

ဒေါက်တာဖေမောင်တင်သည် သူ၏နာမည်ကျော် မြန်မာစာပေသမိုင်းကြီးကို ပြုစုသောအခါ လယ်တီဆရာတော်နှင့်မန်လည်ဆရာတော်အခန်းတွင် ရပ်နားထားကြောင်းတွေ့ရပါသည်။

ကျွန်ုပ်တို့ မြန်မာစာပေလောကတွင် ပုဂ္ဂိုလ်ကျော် ၂ ဦးတွေ့ဆုံခန်းများသည် အလွန်ထူးခြားကြောင်းမှတ်သားခဲ့ဖူးပါသည်။ အင်းဝသား ရှင်မဟာရဋ္ဌသာရနှင့် တောင်တွင်းကြီးသား ရှင်မဟာသီလဝံသတို့၏တွေ့ဆုံခန်းသည် လွမ်းစရာကောင်းလှပါသည်။ ထို့အတူပင်လျှင် တောင်တွင်းကြီးသား ရှင်ဥတ္တမကျော်နှင့် စကားတတ် တရားတတ် ခုံတော်မောင်ကျဘမ်းတို့ တွေ့ဆုံခန်းသည်လည်း လွမ်းစရာကောင်းလှပါသည်။ ကျွန်ုပ် ယခုတင်ပြသည့် နောက်ဆက်တွဲမှာ မန်လည်ဆရာတော်နှင့် လယ်တီဆရာတော်တို့ တွေ့ဆုံခန်းဖြစ်ပါသည်။

ထူးဆန်းသော အချက်တစ်ချက်ရှိပါသည်။ ထိုအချက်မှာ မန်လည်ဆရာတော်သည် သက်တော် ၇၉ နှစ်မှာ ပျံလွန်တော်မူခဲ့ပါသည်။ လယ်တီဆရာတော်သည်ကား သက်တော် ၇၇ နှစ်တွင် ပျံလွန်တော်မူခဲ့ပါသည်။ သို့သော် ထိုဆရာတော်ကြီးနှစ်ပါးသည် တစ်ပါးနှင့်တစ်ပါး တစ်ခါမျှမတွေ့ဖူးကြပါ။

မန်လည်ဆရာတော်ကြီး ပျံလွန်တော်မူခါနီး သက်တော် ၇၈ နှစ်အရွယ်ရောက်မှသာ အချင်းချင်းတွေ့ဖူးကြလေသည်။ တွေ့ပြီးနောက် တစ်နှစ်မှာ မန်လည်ဆရာတော်ကြီး ဘဝနတ်ထံ ပျံလွန်တော်မူသည်။ နောက် ၃ နှစ် အကြာမှာကား လယ်တီဆရာတော်ဘုရားလည်း ဘဝနတ်ထံပျံလွန်တော်မူလေသည်။ ဤအချက်သည် အလွန်ထူးဆန်းလေသည်။

မန်လည်ဆရာတော်ကြီးက လယ်တီဆရာတော်ကြီးထက် ၅ နှစ်မျှ ကြီးလေသည်။ လယ်တီဆရာတော်က မန်လည်ဆရာတော်အောက် ၅ နှစ်ငယ်လေသည်။

၁၉၂၀ မန်လည်ဆရာတော်သည် အေဒီ ၁၉၂၀ (၁၂၈၂ ခုနှစ်)တွင် မန်လည်မြို့မှာပင် ပျံလွန်တော်မူခဲ့သည်။

၁၉၂၃ လယ်တီဆရာတော်ကား အေဒီ ၁၉၂၃ (၁၂၈၅ ခုနှစ်)တွင် ပျဉ်းမနားမြို့တွင် ပျံလွန်တော်မူလေသည်။ ထို့ကြောင့် မန်လည်ဆရာတော်က ၃ နှစ်စောပြီး ပျံလွန်တော်မူသည်။ လယ်တီဆရာတော်က ၃ နှစ်နောက်ကျခဲ့ပြီး ပျံလွန်တော်မူလေသည်။

မန်လည်ဆရာတော် သာသနာပြုရန် ကြွရောက်ခဲ့သော မြို့များမှာ မိုးကုတ်၊ မန္တလေး၊ စစ်ကိုင်း၊ ထီးချိုင့်၊ ရွှေဂူ၊ ဗန်းမော်၊ ကောလင်း၊ ဝန်းသို၊ မိုးညှင်း၊ မိုးကောင်း၊ မြစ်ကြီးနား၊ စစ်ကိုင်း၊ ပခုက္ကူ၊ ပြည်၊ ဟင်္သာတ၊ မင်းလှ၊ ပုသိမ်၊ ရန်ကုန်၊ သထုံ၊ မော်လမြိုင်၊ ပဲခူး၊ ဖြူး၊ တောင်ငူ၊ ပျဉ်းမနား စသည်ဖြင့်



အလွန်များပြားခဲ့လေသည်။ သို့သော်လည်း မန်လည်ဆရာတော်သည် လယ်တီဆရာတော်နှင့် တစ်ခါမှ မတွေ့ဖူးခဲ့ချေ။

လယ်တီဆရာတော် တရားစည်ကြီး ရိုက်တီးတော်မူသော နေရာများမှာလည်း အလွန်များပြားလေသည်။ ၁။ မန္တလေး၊ ရန်ကုန်၊ မီးရထားလမ်းတစ်လျှောက်၊ ၂။ ရန်ကုန်၊ ပြည် မီးရထားလမ်းတစ်လျှောက်၊ ၃။ ဗျဉ်းမနားတောင်တွင်းကြီးတစ်လျှောက်၊ ၄။ ဟသ်ာတ ပုသိမ် မီးရထားလမ်းတစ်လျှောက်၊ ၅။ ပဲခူး မော်လမြိုင် မီးရထားလမ်းတစ်လျှောက်၊ ၆။ ညောင်လေးပင် ရွှေကျင် မဒေါက် မီးရထားလမ်းတစ်လျှောက်၊ ၇။ ဟသ်ာတ ကြံခင်း မီးရထားလမ်းတစ်လျှောက်၊ ၈။ စစ်ကိုင်း - ရွှေဘို - မြစ်ကြီးနား မီးရထားလမ်းတစ်လျှောက်၊ ၉။ စစ်ကိုင်း - မုံရွာ မီးရထားလမ်းတစ်လျှောက်၊ ၁၀။ အလုံနောက်ဈေးတော မီးရထားလမ်းတစ်လျှောက်၊ ၁၁။ ပဲခူး - ခရမ်း မီးရထားလမ်းတစ်လျှောက်၊ ၁၂။ ဧရာဝတီမြစ်ရိုး မြစ်စဉ်တစ်လျှောက် စသော မြို့ကြီးမြို့ငယ်အသွယ်သွယ်တို့သည် လယ်တီဆရာတော် စာပေပြဋ္ဌာ၊ တရားပြဋ္ဌာ၊ ပျံ့နှံ့ရာအရပ်များဖြစ်ကြပါသည်။

သို့သော် ထူးဆန်းသော အချက်မှာ လယ်တီဆရာတော်နှင့် မန်လည်ဆရာတော်တို့သည် တစ်ခါမှ မဆုံစည်း ဖူးကြချေ။ ဤသို့ဖြင့် မန်လည်ဆရာတော်ကြီးကလည်း သက်တော် ၇၈ နှစ်ရောက်လာပြီ။ (နောက်တစ်နှစ်ဆို ပျံလွန်တော်မူပေတော့မည်။) လယ်တီဆရာတော်ကလည်း အသက်ကြီးလာပြီ။ သက်တော် ၇၄ နှစ်ရောက်လာပြီ။ (နောက် ၃ နှစ်ဆို ပျံလွန်တော်မူတော့မည်။)

၁၉၁၉ အေဒီ ၁၉၁၉ ၊ (သက္ကရာဇ် ၁၂၈၁ ခုနှစ် တပေါင်းလ)တွင်ကား ဆရာတော်ကြီး (၂)ပါး တွေ့ဆုံခဲ့ကြလေသည်။ ပုသိမ်မြို့မှ သိမ်သမုတ်ပြီးအပြန် သာယာဝတီနယ်၊ မင်းလှမြို့တွင် မန်လည်ဆရာတော်နှင့် လယ်တီဆရာတော်တို့ ပဌမအကြိမ်နှင့် နောက်ဆုံးအကြိမ်ဆုံတွေ့ခဲ့ကြလေသည်။

တွေ့လျှင်တွေ့ချင်း မန်လည်ဆရာတော်ကြီးသည် လယ်တီဆရာတော်ကြီး လက်မောင်းလက်ရုံးကို ကိုင်တော်မူ၍ ဤသို့ပြောဆိုကြသည်ဟုသိရပါသည်။

(မန်လည်) - ရှေးကတစ်ကြိမ် တစ်ခါမျှ ကိုယ်တိုင် မတွေ့မမြင်ကြရဘူး။ အဝေးက စာပေးစာယူနှင့် လွမ်းနေကြရသည်။ ယခု သေခါနီးမှ ကံကောင်းထောက်မ၍ တွေ့ဆုံကြရပေသည်။ တွေ့ရပြန်တော့လည်း ကိုယ်တော်ကလည်း ဂိလာန၊ တပည့်တော်ကလည်း ဂိလာန၊ လူမမာချင်း ဆုံနေကြရပြန်သည်။

(လယ်တီ) - ကံတူအကျိုးပေးပေါ့ဘုရား၊ ကံပစ်ချရာ ခံရစမြဲပေါ့။ ကံဘုံကံနယ်ထဲက မလွတ်ကြသေးပဲကိုး။ ဆရာတော်မှာတော့ ကုသိုလ်ကံကောင်းပါပေရဲ့။ တခြားမသွားရဘဲနှင့် ကိုယ့်မြို့ ကိုယ်ရွာမှာနေ၍ စာတတ်ရတယ်၊ တပည့်တော်မှာတော့ ကိုယ့်မြို့ကိုယ့်ရွာက ခွာပြီး မန္တလေးသို့တက်၍ အပင်ပန်း ဒုက္ခခံပြီးစာသင်ယူရပါတယ်။

ဤတွင် အဝေးက စာပေးစာယူနှင့်သာ လွမ်းနေကြရသည်ဟူသော စကားသည် အလွန်လွမ်းဖွယ်ကောင်းလှပေလေသည်။ ရှေးကတစ်ကြိမ်မျှ ကိုယ်တိုင်မတွေ့မမြင်ကြရဘူးဟူသော စကားကလေးမှာလည်း နောင်လာနောင်သား စာပေသမိုင်းဆရာတို့အတွက် အထူးအရေးကြီးသော သမိုင်းဝင်စာတစ်ကြောင်းဖြစ်လေသည်။

(ကျမ်းကိုး၊ လယ်တီ ဦးဝဏ္ဏိတ၏ လယ်တီမဟာထေရုပ္ပတ္တိ ကထာ။
၁၉၅၆ ခုနှစ်၊ ဟံသာဝတီပုံနှိပ်တိုက်။ စာမျက်နှာ - ၁၅၈ ကို ရှုပါ)

ထိုညက မန်လည်ဆရာတော်ကြီးက မင်းလှမြို့၊ အင်္ဂလိပ်စာသင်ကျောင်းကြီးတွင် သီတင်းသုံး



တော်မူခဲ့သည်။ လယ်တီဆရာတော်ကြီးက မင်းလှမြို့ ဓမ္မာရုံတွင် သီတင်းသုံးခဲ့ပါသည်။ အရှင်မြတ်ကြီး နှစ်ပါးသည် မင်းလှမြို့၌ ရက်သတ္တတစ်ပတ်ခန့်မျှ သီတင်းသုံးတော်မူပြီးလျှင် ရန်ကုန်မြို့သို့ ကြွတော်မူကြလေ၏။

၁၉၂၀ အေဒီ ၁၉၂၀၊ ဖေဖော်ဝါရီလ ၁၈ ရက်၊ (၁၂၈၁ ခုနှစ်၊ တပေါင်းလဆန်း ၁ ရက်) ဗုဒ္ဓဟူးနေ့တွင် အရှင်မြတ်ကြီးနှစ်ပါးသည် မင်းလှမြို့မှ ရန်ကုန်မြို့သို့ ကြွတော်မူသောအခါ ရန်ကုန်မြို့ ပရမတ္ထသံခိပ် ကျောင်းသူအမျိုးသမီးတို့က သံပြိုင်ညီညာ သီဆို၊ ဂါန်တော့ကြသည့် မင်္ဂလာစည်တော်သံကို လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီးက ရေးပေးခဲ့ပါသည်။

၁၉၂၀ နောက်နှစ် အေဒီ ၁၉၂၀၊ စက်တင်ဘာလ ၂၅ ရက် စနေနေ့ (၁၂၈၂ ခုနှစ်၊ တော်သလင်းလဆန်း ၁၃ ရက်နေ့) နံနက် ၁ နာရီ ၃၀ မိနစ်အချိန်တွင် မန်လည်ဆရာတော်ကြီး ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။

လယ်တီဆရာတော်ဘုရားကြီး၏ တောင်းပန်လျှောက်ထားချက်အရ ဆန်းသံခိပ်နှင့် အလင်္ကာသံခိပ်ကျမ်းများ ရေးသားနေဆဲအခါတွင် ပျံလွန်တော်မူခြင်းဖြစ်ပါသည်။ ထိုအချက်ကပင် ပို၍လွမ်းစရာကောင်းနေပါတော့သည်။

ယခုအခါတွင်ကား ကျွန်ုပ်တို့ စာပေလောကသားများမှာ - စာဆိုတော်ကြီးနှစ်ပါးကို ကိုယ်တိုင် မတွေ့ခဲ့ကြဖူးသဖြင့် စာနှင့်သာလွမ်းနေရပါတော့သည်။

## မန်လည်ဆရာတော်ကြီး ရွတ်ဖတ်လျက်ရှိသော မန်လည်ကျင့်စဉ် ဝတ်ရွတ်စဉ်

မန်လည်ဆရာတော်အကြောင်း ဖတ်လိုက်တိုင်း ပုသိမ်မိဂဒါရုံဆရာတော်ကြီးအကြောင်းက ပါလာစမြဲဖြစ်ပါသည်။ ပုသိမ်မြို့တွင် နှစ်ပေါင်း ၁၀၀ ကျော်ကြာသည့်တိုင် ယနေ့တိုင် ပကတိအတိုင်း ပျော့ပျောင်းလျက်ရှိနေသေးသော ရုပ်ကလပ်တော်ရှိသည့် မိဂဒါရုံ ဆရာတော်ဘုရားကြီး၏ ကြည်ညိုဖွယ်ရာ ဘဝရုပ်ပုံလွှာကို စဉ်းစားမိတိုင်း ပုသိမ်မိဂဒါရုံ ဆရာတော်နှင့် မန်လည်ဆရာတော်တို့ အကြောင်းကို ပြန်ပြောင်းသတိရမိပါသည်။

ထိုအချက်ကို ပုသိမ်မိဂဒါရုံဆရာတော် ဘုရားအကြောင်းတွင် ဖတ်ရှုနိုင်ပါသည်။ တစ်ဖန် မန်လည်ဆရာတော်ဘုရားအကြောင်း ဖတ်လိုက်တိုင်း အထက်မန်လည်၊ အောက်လယ်တီ၊ တောင်ပေါ်မှ ဦးခန္တိဟူ၍ တစ်နိုင်ငံလုံး လူသိများခဲ့သော ဆောင်ပုဒ်တစ်ခုကိုသတိရမိပါသည်။

အထက်မြန်မာပြည်တွင် မန်လည်ဆရာတော်ဟူ၍ သာသနာတွင် ဟိုးဟိုးကျော်ခဲ့ပါ၏။ အောက်မြန်မာပြည်တွင် လယ်တီဆရာတော်ဟူ၍ သာသနာတွင် ဟိုးဟိုးကျော်ခဲ့ပါ၏။ မန္တလေးတောင်ပေါ်တွင် ရသေ့ကြီးဦးခန္တိဟူ၍ သာသနာတွင် ဟိုးဟိုးကျော်ခဲ့ပါ၏။ ထိုအချက်ကို စကားပုံသဖွယ် အများ မှတ်မိလွယ်အောင် 'အထက်မန်လည် အောက်လယ်တီ၊ တောင်ပေါ်မှ ဦးခန္တိ'ဟူ၍ စကားအစဉ် တွင်ခဲ့သည်ဖြစ်ရာ မန်လည်ဆရာတော်အကြောင်း၊ မုံရွာလယ်တီဆရာတော်ဘုရားအကြောင်း၊ မန္တလေးတောင် ရသေ့ကြီး ဦးခန္တိအကြောင်းတို့မှာ ရေး၍မကုန်နိုင် တွေး၍မကုန်နိုင်ရှိခဲ့ရပါသည်။

(ကျမ်းကိုး၊ မန်လည်ဆရာတော်ဂါထာဟူ၍ ဆရာသာဂိုး၏ ဆောင်းပါးတစ်ပိုဒ်ကို လွန်ခဲ့သော နှစ်တော်တော်ကြာက ကလျာမဂ္ဂဇင်းတွင် ဖတ်ခဲ့ဖူးကြောင်း၊ ကျွန်တော် သတိရမိခဲ့ပါသည်။ ထိုဂါထာကို ကျွန်တော်ရသည် အလွတ်မှတ်မိသည် မှန်သော်လည်း မန်လည်ဆရာတော်ဂါထာဟူ၍ ဆရာသာဂိုးက ပြောလိုက်တော့မှ ကျွန်တော်၏



ထိုဂါထာသည် ပို၍လေးနက်လာပါသည်ဟု ကိုယ့်အတွေးနှင့်ကိုယ်ကျေနပ်မိပါသည်။ ထိုဂါထာအကြောင်း သိသင့်သလောက်သိသော်လည်း မန်လည်ဆရာတော်ဘုရားကြီး အလေးအနက်ထားသော ဂါထာဖြစ်ကြောင်း သိရသောအခါ ပိုမိုကြည်ညိုရပါသည်။ ၎င်းအပြင် မန်လည်ဝတ်ရွတ်စဉ်တွင်လည်း ထိုဂါထာကို တွေ့ရပြန်သည်ဖြစ်ရာ အကြောင်းတိုက်ဆိုင်လှပါသည်။ ထို့ကြောင့် ဆရာသာဂဒိုး၏စာနှင့် ကျွန်တော်ရထားသော မန်လည်ဝတ်ရွတ်စဉ်တို့ ပူးတွဲလိုက်လျှင်မန်လည်ကျင့်စဉ်သည် အတော်ကလေး ပြီးပြီးပြက်ပြက် အရောင်ထွက်လာပေသည်ဟုထင်မိပါသည်)

အောက်တွင် မန်လည်ဝတ်ရွတ်စဉ်ကိုဖတ်ကြည့်ပါ။ မန်လည် ဝတ်ရွတ်စဉ်ဖြစ်ပါသည်။ အလွန်ရှားသော စာမူဖြစ်ပါ၏။ ရခဲ၏။

## မန်လည်ဝတ်ရွတ်စဉ်

၁။ ဒေဝတာ မမ ရက္ခာစ၊ နာနာဘူတာ မဟေသရာ။
ဓမ္မကော ယမရာဇာစ၊ လောကပါလာ မဟိဒ္ဓိကာ။

၂။ မဟာရက္ခာ သေနာပတိ၊ ပဇာပတိသ ဣန္ဒက။
တေ တုံမှေ သုခိတာဟောထ၊ ဒီဃာယုကာစ သဗ္ဗဒါ။

၃။ ပုညာဘာဂ္ဂ ဂဏှထ၊ မေတ္တံ ဘာဝေထ နာသဒါ။
ဘာတလေ ဘူတကောကာသေ၊ ဒေဝါယက္ခာ ပိသာစကာ။

၄။ ဝိဇ္ဇာရော ဂန္ဓဗ္ဗာစ၊ နာဂါ ကုမ္ဘဏ္ဍာ ရက္ခသာ။
တေတုမှေ သုခိတာဟောထ၊ ဒီဃာယုကာစ သဗ္ဗဒါ။

၅။ ပုညာဘာဂဂ္ဂ ဂဏှထ၊ မေတ္တံဘာဝေထ နော သဒါ။
မာ ဒါနိကောစံ ဇနယိတ္တ၊ ဣတော ဥန္နံ ယတာပုရေ။

၆။ သဿယာတဥ္စမာကတ္တ၊ သုခကာမာ ဟိ ပါဏိနော။
ကရောထ မေတ္တံ သတ္တေသု၊ ဝသန္တု မနုဇာသုခံ။

၇။ ကန္တာ ကသ္မိရ ဂန္ဓာရံ၊ ဣသိ မဇ္ဈန္တိကောတဒါ။
ဒုဋ္ဌံ နာဂံ ပသာဒေတွာ၊ မောစေသိ ဗန္ဓနာဗဟူ။

၈။ သုဝဏ္ဏဘူမိ ဂန္တာန၊ သောဏုတ္တရာ မဟိဒ္ဓိကာ။
ပိသာစေ နိဒ္ဓမေတွာန၊ ဗြဟ္မဇာလ မဒေသယုံ။

၉။ သော အဟံ ဝိစရိဿမိ၊ ဂါမါဂါမံ ပုရာပုရံ။
နမဿမာနော သမ္ဗုဒ္ဓံ၊ ဓမ္မဿစ သုဓမ္မတံ။

၁၀။ ဘာဝေဝါဟံ၊ ဘာယံဒိတွာ၊ ဘာဝဥ္စ ဝိဘာဝေသိနံ။
ဘာဝံ နာဘိဝန္ဒံ ကိဉ္စိ၊ နန္ဒိစံ နဥပါဒိယိ။

၁၁။ ဟိရိဩတ္တပ္ပ သမ္ပန္နာ၊ သုက္ကဓမ္မ သမာဟိတာ။
သန္တော သပ္ပုရိသာ လောကေ၊ ဒေဝဓမ္မာတိ ဝုစ္စရေ။

၁၂။ ဒိဝါတပတိ အာဒိစ္စော၊ ရတ္တိမာ ဘာတိ စန္ဒိမာ။
သန္နဒ္ဓေါ ခတ္တိယော တပတိ၊ ဈာယီ တပတိ ဗြဟ္မဏော။



အထသဗ္ဗ မဟောရတ္တိံ ၊ ဗုဒ္ဓေါ တပတိ တေဇသာ။
တာဒိသံ တေဇ သမ္ပန္နံ၊ ဗုဒ္ဓ ဝန္ဒာမိ အာဒရံ။

## မန်လည်ဆရာတော်ကြီး အစဉ်အမြဲ ရွတ်ဖတ်လေ့ရှိသော ဂါထာတော်

မန်လည်ဆရာတော်ကြီး၏ ဘဝမှတ်တမ်းများတွင် ဆရာတော်ကြီးသည် ဂါထာနှစ်ပုဒ်ကို အစဉ်ရွတ်ဆိုတော်မူတတ်သည်ဟု တွေ့သိရပါသည်။

တစ်ပုဒ်မှာ 'သောအဟံ' အစရှိသောဂါထာဖြစ်ပြီး၊ နောက်တစ်ပုဒ်မှာ 'ဗုဒ္ဓေါလောကေ' အစချီဂါထာပျံ့ဖြစ်သည်။ ဂါထာနှစ်ပုဒ်လုံး အစွမ်းထက်သည်ဟု ဆရာတော်ကြီးကိုယ်တော်တိုင် ယုံကြည်တော်မူ၍ အစဉ်ဂရုတစိုက် ရွတ်ဆိုသည်ဟုဆိုသည်။ 'သောအဟံ' ဂါထာမှာ ဤသို့ဖြစ်ပါသည်။

သောအဟံ ဝိစရိဿမိ၊ ဂါမာဂါမံ ပုရာ ပုရံ။

နာမဿမာနော သမ္ဗုဒ္ဓံ၊ ဓမ္မဿစ သုဓမ္မတံ။

ယင်းဂါထာကို မန်လည်ဆရာတော်ကြီးသည် ဘယ်သို့သွားသွား ခရီးထွက် ခရီးလှည့်လည်ရာတိုင်း၌ အစဉ်ရွတ်ဆိုသွားတော်မူပါသည်ဟု သိရပါသည်။

ဆရာဦးဆန်းထွန်းက 'သောအဟံ'ဂါထာကို နတ်ကြီးများ ကောင်းကင်ခရီးလှည့်ရာ၌ ရွတ်ဆိုတတ်သည်ဟုဖော်ပြပြီး၊ 'အန္တရာယ်ကင်းစွာ၊ လေယာဉ်ပြီးသောဂါထာ'ဟု ဖော်ပြခဲ့ပါသည်။

(ကျမ်းကိုး၊ စစ်ကြိုခေတ် နာမည်ကျော် ဒဂုန်မဂ္ဂဇင်းကြီး၏ အယ်ဒီတာချုပ်ဖြစ်ခဲ့သူ လယ်တီပဏ္ဍိတဆရာဦးမော်င်ကြီးသည် လယ်တီတရားသတင်းစာ'ကိုလည်း ကိုယ်တိုင်ကြီးကြပ် လုပ်ဆောင်ခဲ့ခြင်းဖြစ်သည်။ ၁၂၈၈ ခုနှစ် ဝါဆိုလတွင် စတင်ထုတ်ရာ သတင်းစာဟု စာဆိုသော်လည်း တစ်လတစ်ကြိမ်ထုတ်ဖြစ်လျက် အဖိုးမှာ ၈ ပဲ (ပြား ၅၀)ဖြစ်သည်။ ပြား ၅၀ ကို နည်းအံ့မထင်လင့်၊ ဖွပ်ကျယ်တစ်ထည် ၃ ပဲ (၁၅ ပြား) ခေါက်ဆွဲတစ်ခွက် ၁ ပဲ (၅ ပြား)၊ ချုပ်ပြီး ရှပ်တစ်ထည် ခြောက်မူး (ပြား ၆၀)ပလေကပ် အကောင်းစား ချုပ်ချောလုံချည်တစ်ထည် သုံးမတ် (၇၅ ပြား) အသီးသီး ဈေးနှုန်းရှိသော ကာလကဖြစ်ရာ ငါးမူးတန်ဖြစ်သော စာစောင်သည် နည်းသည့် ကိစ္စမဟုတ်ချေပါ။
လယ်တီဆရာသတင်းစာ၏ ထူးခြားသော မှတ်တိုင်နှစ်ခုရှိရာ တစ်ခုမှာ စာစောင်ထုတ်၍ ၅ လ အကြာတွင် စောင်ရေ တစ်သောင်းကျော်သို့ ခုန်တက်ခဲ့ခြင်းနှင့် နောက်တစ်ခုမှာ ရိုက်ထုတ်ပြီး စာစောင် အဟောင်းများကိုလည်း ဒုတိယ နှိပ်ခြင်း၊ တတိယနှိပ်ခြင်းတွေ ပြန်ပြန်ရိုက်ရခြင်းပင် ဖြစ်ပါသည်။ စာနယ်ဇင်းသမိုင်းကဏ္ဍတွင် ဤအဖြစ်မျိုးရှားပြီး မကြားဖူးပါ။ ယင်း လယ်တီတရား သတင်းစာတွင် လယ်တီဆရာတော်နှင့် မန်လည်ဆရာတော်ကြီးတို့၏ အကြောင်းများ၊ ဩဝါဒများ၊ ဓာတ်ပုံများကို လစဉ်ထည့်သွင်းပါသည်။ အထက်ပါအကြောင်းအရာများကို ဆရာသာဂဒိုး၏ စာမှ ကူးယူဖော်ပြပါသည်။ )

မန်လည်ဆရာတော်ကြီးနှင့် လယ်တီဆရာတော်ကြီးတို့သည် မြန်မာ့သာသနာနှင့် စာပေတွင် နေမင်း ၂ ဆူကဲ့သို့ ထင်ရှား တော်မူကြသော်လည်း တစ်ပါးနှင့်တစ်ပါး တွေ့ဆုံခြင်း၊ နီးကပ်ခြင်း မရှိခဲ့ပါချေ။ ရဟန်းရှင်လူတို့၏ ပင့်ဖိတ်ပူဇော်ချက်အရ ပုသိမ်၊ ဟင်္သာတဘက်မှ ခရီးလှည့်လည်လာသော မန်လည်ဆရာတော်ကြီးအား သာယာဝတီ မင်းလှသို့ ကြွရောက်တော်မူနေသည့် လယ်တီဆရာတော်ကြီးက လှမ်းပင့်လျှောက်ချက်အရ တွေ့ဆုံကြခြင်း ဖြစ်ပါသည်။



၁၉၂၀ အေဒီ ၁၉၂၀ ဖေဖော်ဝါရီ ၁၅ ရက် တနင်္ဂနွေနေ့ (၁၂၈၁ ခုနှစ် တပို့တွဲလပြည့်ကျော် ၁၂ ရက်နေ့)တွင် မင်းလှမြို့၌ ဆရာတော်ကြီး ၂ ပါး ပထမဆုံးအကြိမ် ဆုံမိခဲ့လေသည်။ ယင်းကို ထူးခြားစွာ မှတ်တမ်းများ တင်ခဲ့ကြပေသည်။

၁၉၂၀ ထို့နောက် ဆရာတော်ကြီး ၂ ပါးသည် ဒါယကာများ၏ ပန်ကြားပူဇော်ချက်အရ ရန်ကုန်မြို့သို့ အတူတကွ မီးရထားဖြင့် ကြွတော်မူခဲ့သဖြင့် အေဒီ ၁၉၂၀၊ ဖေဖော်ဝါရီ ၁၈ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၂၈၁ ခုနှစ် တပေါင်းလဆန်း ၁ ရက်နေ့ ) ညနေ ၃ နာရီကျော် ရန်ကုန်မြို့ ဆိုက်ရောက်ပေရာ ရဟန်းရှင်လူတို့သည် သာသနာ့ နေ(၂)ဆူကို အုတ်အုတ်ကျက်ကျက် တစ်ခဲနက်ကြီး အထူးထူး အကဲကဲတွေ ပူဇော်လိုက်ကြသည်မှာ အမြောက် ၂၁ ချက်ပင် ပစ်ဖောက်သောဟူ၏။

(ကျမ်းကိုး၊ လယ်တီဝဏ္ဏိတ၊ လယ်တီ မဟာထေရုပ္ပတ္တိကထာ၊ ဟံသာဝတီပုံနှိပ်တိုက်)

မှတ်တမ်းတွင် ဤအတိုင်းပင်တွေ့ရပါသည်။ အင်္ဂလိပ်တို့ခေတ်တွင် အမြောက်ကို ဘယ်သို့စီစဉ် ဘယ်သို့ ရရှိသည်ကိုမူမသိရပါ။ ဆရာတော်ကြီး ၂ ပါး ရန်ကုန်အရောက် ပူဇော်ခြင်းတွင် ရန်ကုန်မြို့လယ်တွင် အမြောက် ၂၁ ချက် ပစ်ဖောက်ဂုဏ်တင်ခဲ့ခြင်းကား မှတ်တမ်းမှာ အထင်အရှားဖြစ်တော့သည်။ ယင်းအစီအစဉ်များကို လယ်တီဆရာတော်ကြီးက ရှုံးဆော်စီစဉ်ကြောင်းဖြင့် မှတ်တမ်းက ဖော်ပြလေသည်။

(ကျမ်းကိုး၊ (၁) တင်အောင်သွင်၊ မန်လည်ဆရာတော်ဘုရားကြီး၏ နိဝါတ တရား။ ဗုဒ္ဓမေတ္တာလောက၊ ၁၉၉၆ ခု၊ မေလ အတွဲ ၄၁၊ အမှတ် ၉၊ စာ ၅၁- ၅၃)

(ကျမ်းကိုး၊ (၂) မောင်ပန်းမွေး၊ မဟာဝိဇ္ဇာ၊ ယုံချင်ယုံ မယုံချင်နေ၊ ဒဂုန်မဂ္ဂဇင်း၊ ၁၉၈၅ ခု၊ ဇွန်လ၊ စာ၊ ၅၃-၅၈)

(ကျမ်းကိုး၊ (၃) မောင်ဉာဏ်ဝန်၊ မန်လည်ကဗျာနှင့် နယ်ချဲ့ဆန့်ကျင်ရေး၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၅၄-၅၈)

(ကျမ်းကိုး၊ (၄) သန်းထွန်း၊ စကု မန်လည်ဆရာတော်၏ ဟာသစွမ်းရည်၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၃၅-၃၉)

(ကျမ်းကိုး၊ (၅) ဒေါ်မိမိလေး၊ မြန်မာ ပါမောက္ခ (ငြိမ်း)၊ သံယောဇဉ်၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၄၀-၄၄)

(ကျမ်းကိုး၊ (၆) ရန်အောင်မောင်မောင်၊ မြို့မန်လည် ရွှေစည်ကြီးဆီသို့၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၄၆-၅၃)

(ကျမ်းကိုး၊ (၇) ပါရဂူ၊ မန်လည်ဆရာတော်၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၁၈-၂၂)

(ကျမ်းကိုး၊ (၈) မယဒေဝ ရာပြည့်အကြိုနှင့် မန်လည် ပိဋကတ်တိုက်၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၁၃-၁၆)

(ကျမ်းကိုး၊ (၉) ရွှေဘို မိမိကြီး၊ မန်လည်ဆရာတော်ဘုရားနှင့် မိုးတားဝန်၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၂၃-၂၅ )

(ကျမ်းကိုး၊ (၁၀) လူထုဒေါ်အမာ၊ မဟာစေတီတော်ကို တည်ထားကိုးကွယ်တော်မူသွားသော မန်လည်ဆရာတော်ဘုရားကြီးသို့၊ ကန်တော့ပန်း၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၁၃-၁၆)



(ကျမ်းကိုး၊ (၁၁) မောင်ပန်းမွှေး၊ မန်လည်ဆရာတော်၏ ကျွန်ဘဝ၊ ရုပ်မြင်သံကြား၊ စာပန်းချီကဗျာ၊ မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၃၁-၃၃ )

(ကျမ်းကိုး၊ (၁၂) မောင်ပန်းမွှေး၊ မယဒေဝလင်္ကာသစ်ကြီး၊ လက်ရေးမူကို တွေ့ရခြင်း၊ မိုးဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၃၁-၃၃ )

(ကျမ်းကိုး၊ (၁၃) မောင်ပန်းမွှေး၊ ယနေ့တိုင် ဖူးမြော်နိုင်သေးသော မန်လည်ဆရာတော် မိုး ဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၃၃-၃၄ )

(ကျမ်းကိုး၊ လယ်တီဦးလှပိုင်၊ လယ်တီ ဂန္ထဝင်ကျော်များသမိုင်း ကျေးဇူးရှင် မန်လည်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်းချုပ်၊ ပထမအကြိမ် ပုံနှိပ်ခြင်း၊ ၁၉၆၇ ခု၊ ဩဂုတ်လ၊ သုခဝတီ၊ မန္တလေးမြို့။)

(ကျမ်းကိုး၊ လယ်တီ ဦးဝဏ္ဏိတ၊ လယ်တီ မဟာထေရုပ္ပတ္တိကထာ၊ ဟံသာဝတီ ပုံနှိပ်တိုက်၊ ၁၉၅၆ ခု၊)

ရဟန္တာဟု ကျော်စောသော

# ဆရာတော် ဦးကြည်

**အေဒီ ၁၈၄၂ - ၁၉၂၆ ( ၁၂၀၄ - ၁၂၈၈ )**





တစ်ရံရောအခါက ပခုက္ကူနယ်တွင် ဘုန်းတော်ကြီးတစ်ပါးကို ပြန်ပေးဆွဲသည်ဟူသော သတင်းအထူးအဆန်းတစ်ခုကို ကြားခဲ့ဖူးရပါသည်။ ထိုဆရာတော်မှာ ပခုက္ကူ သဲပုံစေတီတောရ ဦးကိတ္တိဖြစ်ကြောင်းသိရှိရပါသည်။ ထိုဆရာတော်ကြီးမှာ ရဟန္တာဟုကျော်ကြားတော်မူသော အရညဝါသီဆရာတော်ဦးကြည်ဖြစ်ကြောင်းသိရှိရပါသည်။

တစ်ရံရောကာလ လူဆိုးလေးငါးယောက် တောရကျောင်းတိုက်တွင်းသို့ မဝံ့မရဲဝင်ရောက်လာကြ၏။ ဝေါယာဉ် (ထမ်းစင်) တစ်ခုကိုလည်းယူလာကြသည်။ အလွန်အကြံကြီးသူများဖြစ်ကြ၏။ ဆရာတော်ကား ညနေချမ်း လူသူရှင်းချိန် ဖြစ်သဖြင့် သစ်တစ်ပင်ရင်း၌ အေးဆေးစွာ ကမ္မဋ္ဌာန်းထိုင်နေခိုက်ဖြစ်သည်။ ထိုအခါ ဒကာတစ်ဦးက ဆရာတော်အား ယုံကြည်လောက်အောင် တစ်စုံတစ်ခုအကြောင်းပြလျှောက်ထား၍ ဝေါယာဉ်ဖြင့်ပင့်ကြသည်။ 'အေး . . အေး မင်းတို့ လိုရာပင့်တာပေါ့' ဟု မိန့်ကာ ဝေါပေါ်သို့တက်တော်မူ၏။ လူဆိုးများမှာ အကြံပိုင်ပြီဟု ဝမ်းမြောက်စွာထမ်း၍ပင့်ကြသည်။

အကြောင်းမှာ ဆရာတော်အား ပခုက္ကူတစ်မြို့လုံးမှ သူဌေးသူကြွယ်များအသက်တမျှကိုးကွယ်ဆည်းကပ်ကြရာ ပြန်ပေးဆွဲလျှင် ရွှေ ငွေ လိုသလောက်ရမည်ဟု ကိန်းသေတွက်၍ ပြန်ပေးဆွဲကြခြင်းဖြစ်သည်။ လေးယောက်သား မမောနိုင်၊ မပန်းနိုင်၊ ချွေးဒီးဒီးကျအောင်ထမ်းကြရ၏။ တစ်နာရီကျော်ကျော် ကြာလာသောအခါ မိမိတို့ ကြိုတင်စီစဉ်ထားသော လုံခြုံသည့် စခန်းသို့ရောက်ပြီဟုယူဆ၍ ဝေါကိုမြေပြင်၌ချကြသည်။ ဝေါကိုချပြီး ပတ်ပတ်လည် တောင်မြောက်လေးပါး စိတ်ချလောက်သော အခြေအနေရှိမရှိ အကဲခတ်ရင်း ကြည့်လိုက်ကြ၏။ တစ်နာရီကျော်ကျော် ချွေးဒီးဒီးကျအောင် ထမ်းခဲ့သော်လည်း ဆရာတော်၏ တောရကျောင်းဝင်းကလေးမှ အပြင်မရောက်။ ကျောင်းအတွင်းမှာပင် ချာချာလည်နေကြကြောင်း သတိရကြလေတော့၏။ ထိုအခါ လူဆိုးများ သက်ပြင်းချ၍ ချွေးသုတ်ရင်း ဝန်ချကန်တော့ကာ ထွက်ပြေးကြလေတော့သည်။

(ကျမ်းကိုး၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ စာ ၂၅၃ )

ဆရာတော်ကြီးအကြောင်းကို ဆက်လက်လေ့လာရာ ထူးခြားမှုများ အံ့ဖွယ်တွေ့ရှိရ၍ များစွာကြည်ညိုမိပါသည်။

ပထမသော် ဆရာတော် ဦးကြည်အား တောကျီးကန်းဟု ကွယ်ရာ၌ ပြောဆို သုံးနှုန်းလေ့ရှိ၏။ အထင်ကြီးသည့်အခါတွင်ကား ကိုကြည် ကျုပ်တို့ကို ပစ်မထားနဲ့နော်ဟု ပြောဆိုကာ တရင်းတနှီး ချစ်ခင်လေးမြတ်တော်မူကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၅၃ )

ဆရာတော်ကား အမြဲပံသကူ တိစီဝရိက် ဓုတင်ဆောက်၍ သက်န်းသုံးထည်ဖြင့်သာနေတော်မူ၏။ သက်န်းတွင် သန်းများ၊ အိပ်ရာတွင် ကြမ်းပိုးများ စွဲကပ်နေသော်လည်း ရှင်းလင်းခွင့်မပြုချေ။ စားမှု၊ နေမှု၊ ဝတ်မှုတွင် အလွန်ခြိုးခြံ၍ ခေါင်းပါးစွာ ကျင့်ကြံတော်မူလေ့ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၅၃ )

တစ်နေ့သောအခါ ဆရာတော်ဦးကြည်သည် ဆွမ်းခံကြွရာ ရပ်ကွက်၌ ဆွမ်းခံပြီး အပြန်တွင် ကုမ္ဘဏီကျောင်း၌ အလှူတစ်ခုရှိရာ ထိုအလှူပွဲတွင် ဆရာတော်အား ရေစက်ချပင့်လျှောက်ရန် စီစဉ်ထားသည့်အတိုင်း လမ်းမှဆီးကြို၍ ပင့်သဖြင့် အလှူသို့ ကြွရသည်။



ရေစက်ချအမှုဝေပြီးနောက် ဆရာတော်ပြန်ကြွရာ ဆရာတော် ထိုင်တော်မူသောနေရာ၌ ပိုးလောက်များ တလှုပ်လှုပ်တရွရွပြေးနေသည်ကို တွေ့ကြရာမှ ဆရာတော်မှာ အနာရှိပုံရတယ်ဟု ယူဆကြရသည်။ အကျိုးအကြောင်းလျှောက်ရာ ဆရာတော်၏တင်ပါးခွက်၌ ဘယ်အချိန်က ဖြစ်နေသည်မသိ၊ ပိုးလောက်များစုခဲနေသည်ကို တွေ့ကြရသည်။ ဆေးကုသရန် လျှောက်ကြသော်လည်း လက်မခံချေ။

ခန္ဓာကိုယ်ဆိုတာ ပိုးတွေလောက်တွေနေတဲ့ အိမ်ကြီးပဲ ဟူ၍သာ မိန့်တော်မူ၏။ သည်းခံရင်းနှင့်ပင် ပျောက်ကင်းဟန်ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၆၃ )

ဆရာတော် ဦးကြည်မှာ ညောင်ဦးမြို့ဇာတိဖြစ်ပါသည်။ အဖ ဦးပေခွေး၊ အမိ ဒေါ်မင်းဘူးဖြစ်၏။ အဖသည် လှေသူကြီးလုပ်ခဲ့ဖူးသည်ဟုဆိုပါသည်။ ဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကို အောက်တွင် ကြည့်ပါ။

၁၈၄၂ အေဒီ ၁၈၄၂ ခု (၁၂၀၄ ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ငါးရက်နေ့) ညနှစ်နာရီကျော်အချိန် ဖွားမြင်၏။ မွေးချင်းငါးယောက်တွင် အကြီးဆုံး။ ငယ်မည် မောင်ကြည်။ ဆရာတော်ကြီး ဖြစ်သည်တိုင်အောင် ထိုအမည်အတိုင်းပင်ခေါ်ကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၄၈ )

၁၈၅၄ အေဒီ ၁၈၅၄ (၁၂၁၆ ခုနှစ်) တစ်ဆယ့်နှစ်နှစ်သား အရွယ်တွင် ပခုက္ကူမြို့ ပုထိုးကျောင်းတိုက် ခင်ကြီးတိုးခေါ် ဆရာတော် ဦးသုမနထံ ရောက်လာသည်။

၁၈၅၇ အေဒီ ၁၈၅၇ (၁၂၁၉ ခုနှစ်) တစ်ဆယ့်ငါးနှစ်သားအရွယ်တွင် ရှင် ဖြစ်၏။ ဘွဲ့တော်မှာ ရှင်ကိတ္တိဖြစ်၏။

၁၈၆၁ အေဒီ ၁၈၆၁ ( ၁၂၂၃ ခုနှစ်၊ နယုန်လဆန်း ၁၀ ရက်နေ့) တွင် ထိုပုထိုးကြီးကျောင်းတိုက်၊ ခဏ္ဍသိမ်၌ ဆရာတော် ဦးသုမနကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းအဖြစ်သို့ရောက်၏။

၁၈၆၄ အေဒီ ၁၈၆၄ ခု (၁၂၂၆ ခုနှစ်) ရဟန်း ၂ ဝါ ရသည့်အထိ ထိုဆရာ၏ ထံပါး၌ ပညာသင်ကြားခဲ့၏။

၁၈၆၅ အေဒီ ၁၈၆၅ ခု (၁၂၂၇ ခုနှစ်) ရဟန်း ၃ ဝါ အရတွင် မန္တလေးသို့ ကြွရောက်၏။ စံကျောင်းတိုက်ကြီး၌ စာပေသင်ယူခဲ့၏။

ထိုနှစ်တွင် လယ်တီဆရာတော် လောင်းလျာ ဦးဉာဏနှင့် ရင်းနှီးသော စာသင်ဖက်မိတ်ဆွေဖြစ်ခဲ့၏။

၁၈၇၀ အေဒီ ၁၈၇၀ ခု (၁၂၃၂ ခုနှစ်) ရဟန်း ၉ ဝါ ရသည့်တိုင်အောင် ပုထိုးတိုက်တွင် စာပေပို့ချခဲ့၏။ တစ်ဖက်ကလည်း ဝိပဿနာအားထုတ်ခဲ့၏။

၁၈၇၁ အေဒီ ၁၈၇၁ ခု ( ၁၂၃၃ ခုနှစ်) ရဟန်း ၁၀ ဝါ ရသောအခါ သဲပုံစေတီ တောရသို့ ဝင်တော်မူ၏။

သက်တော် ၇၈ နှစ်တိုင်တိုင် တောရဆောက်တည်၏။ အမြဲဆွမ်းခံ၏ဟုသိရပါသည်။

ဆရာတော်၏ ကျင့်စဉ်နှင့် ပတ်သက်၍ မျက်မြင်ပုဂ္ဂိုလ်များက ပြောပြကြသည်မှာ မှတ်သားဖွယ်ဖြစ်ပါသည်။

အတူနေတပည့်ကြီးများကပင် ဆရာတော် တစ်ခါမျှ လဲလျောင်းသည်ကို မမြင်ဖူးဟု ဆိုကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၄၉ )



ဆရာတော်သည် သဲပုံစေတီတော်မှ ပုထိုးတိုက်သို့ အ ကာလညအခါတွင် မကြာခဏ ကြွလာတော်မူလေ့ရှိသည်။ ထိုနယ်ဒေသသည် အဆိပ်ပြင်းထန်သော မြွေပွေး၊ မြွေဟောက်များ ပေါများသည့်ဒေသဖြစ်၍ မြွေဆိုးများနှင့် မကြာခဏ တွေ့တော်မူရသည်။ နွေနှောင်း မိုးဦးတွင် ပို၍ပေါ၏။ မြွေဆိုးများကို အခွေပေါ် တက်၍နင်းသည့် အခါနင်းမိသည်။ မိတ်လိုက်သည့် အခါမျိုးတွင် ရန်သူရှောင်မရအောင် ကင်းချထား သကဲ့သို့ရှိသည်။ ဟိုမှသည်မှ ဝိုင်းအုံလာကာ အများအပြား ရှောင်မလွတ်အောင် တွေ့ရတတ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၅၀ )

တစ်ခါကသော် ဘုံဘေဘားမားကုမ္ပဏီမှ မုန်ယိုနေသော ဆင်ကြမ်းကြီး တစ်ကောင် နှင့် ခရီးရင်ဆိုင်တွေ့တော်မူရာ နင်းသတ်မည့် အဟန်ဖြင့် ရှေးရှုရင်ဆိုင်ပြေး၍ လာသော်လည်း ဆရာတော့်အနီးသို့ရောက်လျှင် ဆရာတော်က မည်သို့မျှ အမူအရာ မပြရဘဲလျက် အလိုလိုရှောင်ဖယ်ထွက်ပြေးသွားဖူးသည်၊ ထိုအကြောင်းကို လျှောက် ထားကြလေ၏။ အထူးသဖြင့် မြွေကင်းပေါများသော ဒေသဖြစ်၍ မြွေမှော်၊ မြွေအင်း၊ မြွေဂါထာများကို ရလိုရငြားဟု ဆရာတော်အား စုံစမ်းသကဲ့သို့ ဖြစ်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၅၀ )

၁၈၉၄ အေဒီ ၁၈၉၄ ခု၊ (၁၂၅၅ ခုနှစ်)တွင် အိန္ဒိယပြည်သို့ ဘုရားဖူးကြွတော်မူသည်။ တရားဦး ဟောရာ မိဂဒါဝုန်စသော ဌာနများသို့လည်း ကြွရောက်ဖူးမြော်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၅၈ )

၁၈၉၆ အေဒီ ၁၈၉၆ ခု ( ၁၂၅၈ ခုနှစ်) တွင် သီဟိုဠ်ကျွန်းသို့ ကြွရောက်၍ မဟာစေတီနှင့် စွယ်တော်သို့ကြွရောက်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၅၈ )

၁၉၂၀ အေဒီ ၁၉၂၀ ခု ( ၁၂၈၂ ခုနှစ် ) သက်တော် ၇၈ နှစ်တိုင်အောင် တစ်ပါးတည်း တောရဆောက်တည်၍ နေပူမိုးရွာမရှောင် ဆွမ်းခံစားရသော ဓလေ့ကို ကျင့်သုံးခဲ့ သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၆၄ )

ဆရာတော်သည် သက်တော် ကြီးရင့်လာသောအခါမှာလည်း ရောဂါမည်မျှ ပြင်းထန်စေကာမူ မအိပ်စက်ခဲ့ဘဲ ကျင့်ကြံအားထုတ်ခဲ့သည်ဟုသိရှိရပါသည်။

ဆရာတော် ဦးကြည်သည် တစ်နေ့တခြား ရောဂါဆိုးရွားလာသော်လည်း ထိုင်လျက် သာ ဝေဒနာကိုရှုမှတ်နေရာ ငါးရက်လုံးလုံး အာဟာရမဝင်၊ တရားကိုသာ တွင်တွင် ရှုတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၆၅ )

၁၉၂၆ အေဒီ ၁၉၂၆ ခု၊ ဇွန်လ ၃၀ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၂၈၈ ခုနှစ် ပထမဝါလဆုတ် ၆ ရက်နေ့) ညနှစ်နာရီအချိန်တွင် ညောင်စောင်းပေါ်၌ထိုင်လျက် ငုတ်တုတ် ကမ္မဇရုပ် ချုပ်တော်မူသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ မွှော်စရိယ ဦးဌေးလှိုင်၊ စာ ၂၄၈-၂၆၅ )

# မုံရွာမြို့ လယ်တီဆရာတော်ဘုရားကြီး

## အေဒီ ၁၈၄၆ – ၁၉၂၃ (၁၂၀၈ – ၁၂၈၅)





ယခုအခါ ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးသည် ဖြဟ္မာ့ပြည် ဝေဟပ္ဖိုလ်ဘုံ၌ ရောက်နေသည်ဟုပြောလျှင် ယုံကြည်နိုင်သူ ဦးရေမျှားမည် မဟုတ်ပေဟူသော စာသားကလေးကို လယ်တီဦးလှပိုင်ထံမှ ကြားသိရပေရာ အလွန်အံ့ဩမိလှပါတော့သည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင်ကျော်များသမိုင်း၊ ၁၉၆၇ ခု၊ ဩဂုတ်လ ပထမအကြိမ် ပုံနှိပ်ခြင်း၊ သုခဝတီ ပုံနှိပ်တိုက်၊ စာ ၂၄၄ )

လယ်တီဆရာတော်ဘုရားကြီး နာမကျန်းဖြစ်၍ ၇ ရက်လောက်အကြာတွင် လျောင်တစ်ကြိမ်လှူပ်သည်။ ၎င်းနောက် ပျံလွန်တော်မူခါနီးတွင် ဒုတိယအကြိမ် မြေလျောင်လှူပ်ပြန်သည်။ ပျံလွန်တော်မူပြီး ၇ ရက်မြောက်သောနေ့တွင် တတိယအကြိမ် မြေလျောင်လှုပ်ပြန်၏။ ထိုအချက်မှာ အလွန်စိတ်ဝင်စားဖွယ်ဖြစ်ပါသည်။ အောက်တွင်ကြည့်ပါ။

**ဆရာတော် နာမကျန်းဖြစ်၍ ၇ ရက်လောက်အကြာ လက်ဖက်ရည်ကြမ်းဘူဦးပေးနေစဉ် မြေလျောင်လှူပ်သဖြင့် လူပြည်လောကမှာ တရားဓမ္မဟောရတာ အားရလောက်ပါပြီ၊ နတ်တွေဗြဟ္မာတွေကို တစ်လှည့်ဟောရန် အချိန်တော်ပေပြီဟု ဆရာတော်ဘုရား အမိန့်ရှိတော်မူသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၄၄ )

၁၈၄၆ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် အေဒီ ၁၈၄၆ ခု၊ ( မြန်မာသက္ကရာဇ် ၁၂၀၈ ခုနှစ်၊ နတ်တော်လဆန်း ၁၃ ရက် ) အင်္ဂါနေ့၊ နံနက် ၁ ချက်တီးကျော် အချိန်တွင် ဒီပဲယင်းမြို့နယ် စိုင်ပြင်ရွာ၌ ဖွားမြင်တော်မူခဲ့သည်။ ခမည်းတော်မှာ ဦးထွန်းသာဖြစ်၍ မယ်တော်မှာ ဒေါ်ကြုံးဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၄ )

ဦးထွန်းသာ ဒေါ်ကြုံးတို့တွင် သားသမီးခြောက်ဦး ထွန်းကားခဲ့ရာ ယင်းတို့မှာ ၁။ ပထမ အကြီးဆုံးသား (ငယ်စဉ်ကကွယ်လွန်) ၂။ ဒုတိယသား မောင်တက်ခေါင် (လယ်တီဆရာတော်) ၃။ တတိယသား မောင်တက်စွာ (လူဝတ်ကြောင်) ၄။ စတုတ္ထသားမောင်တက်ပွား ( ပထမပြန် ဦးကုမာရ) ၅။ ပဉ္စမသား မောင်တက်ထွား ( ဆရာတော်ဦးကိတ္တိ) ၆။ ဆဋ္ဌမသား မမြလေးတို့ ဖြစ်ကြသည်၊ သို့ဖြစ်ရာ သားသမီးခြောက်ဦးရှိသည့်အနက် ဒုတိယသား၊ စတုတ္ထသားနှင့် ပဉ္စမသားများမှာ ရဟန်းအဖြစ်သို့ ရောက်ခဲ့ကြသည်။

(ကျမ်းကိုး၊ လယ်တီထေရုပ္ပတ္တိ စာအုပ်များနှင့် လယ်တီဒီပနီ ကျမ်းဦးနိဒါန်း များတွင် ဖော်ပြထားသကဲ့သို့ လယ်တီဆရာတော်၌ မွေးချင်းငါးဦးမဟုတ်၊ မွေးချင်းခြောက်ဦးသာ အမှန်ဖြစ်သည်)

၁၈၅၆ အေဒီ ၁၈၅၆ ခု (၁၂၁၈ ခုနှစ် ) မောင်တက်ခေါင် ၁၀ နှစ်သား အရွယ်တွင် စိုင်ပြင်ရွာ ကျောင်းမကျောင်းဆရာတော် အရှင်နန္ဒထံ ပညာသင်ကြားရန် ကျောင်းအပ်နှံခဲ့သည်။

ဆရာတော်၏ဘွဲ့အမည်တော်မှာ အောက်ပါအတိုင်းဖြစ်ကြောင်းသိရှိရပါသည်။

၁၈၆၁ အေဒီ ၁၈၆၁ ခု၊ (၁၂၂၃ ခုနှစ် ) အသက် ၁၅ နှစ် သားအရွယ် ရှင်သာမဏေပြုရာ ဘွဲ့အမည်မှာ ရှင်ဉာဏဓဇ ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၀)



'မုံရွာလယ်တီ တောရပ်မှီ၊ မထေရ် ဉာဏ်ဓဇ' ဟူသော ပရမတ္ထသံခိပ် နိဂုံးမှ ဉာဏဓဇ ဟူသော စကားရပ်ဖြင့် ကျေးဇူးရှင်ဆရာတော်ကြီး ကိုယ်တော်တိုင် ယင်း၏ ဘွဲ့အမည်ကို ဉာဏဓဇဖြစ်ကြောင်း ဖော်ထုတ်သွားတော်မူခဲ့ခြင်းဖြစ်သည်။

(ကျမ်းကိုး၊ လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီးက သူ၏ ပရမတ္ထသံခိပ် အမေးအဖြေ၌ ဖြေဆိုရေးသားထားသည်။ ၎င်းအပြင် အထက်ပါ ကျမ်းစာ ၅၅ လည်း ကြည့်ပါဦး)

၁၈၆၄ အေဒီ ၁၈၆၄ ခု (၁၂၂၆ ခု ) ၁၈ နှစ်အရွယ်တွင် ရဲထွတ်ရွာ အရှေ့ဘက် ဝေဒပါရဂူ ဆရာတော် အရှင်ဂန္ဓမာအထံ၌ ဗေဒင်ဘက်ဆိုင်ရာ ပညာရပ်များကိုသင်ယူခဲ့သည်။ ယင်းသို့ သင်ယူရင်း ကြည့်ကန်ကိုရင်ကြီး၏ လင်္ကာကို နည်းယူပြီးလျှင် ဗိုလ်၊ သုဇာတာ၊ ဗျဉ္ဇတာ၊ ဇာတာဖွဲ့ သင်္ကြန်တွက် လင်္ကာရိုးလင်္ကာများကို ဖွဲ့ဆိုရေးသားတော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၂-၃၃ )

ထိုစဉ်က သာမဏေဘဝဖြစ်ပင် မဟော်ဇာတ်ထုပ်နှင့် မဟော်ကျေးစေခန်းရတု၊ ရှင်လောင်းလှည့် (သျှိုးလိုက်) ရတုကဗျာများကိုလည်း ဖွဲ့ဆိုရေးသားတော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၆ )

ထို့ပြင် သဒ္ဒါဘက်ဆိုင်ရာ သဒ္ဒါငယ်ကျမ်းများကိုသင်ယူရင်း ဝစ္စဝါစက အကောက်ကျမ်းဟောင်းကို အားမရသဖြင့် ဝစ္စဝါစက အကောက်ကျမ်းသစ်ကိုလည်း သာမဏေဘဝ ဆယ်ကျော်သက်ကပင် ရေးသားပြုစုခဲ့သေးသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၇ )

၁၈၆၆ အေဒီ ၁၈၆၆ ခု၊ ဧပြီလ ၁၉ ရက်၊ ကြာသပတေးနေ့ (သက္ကရာဇ် ၁၂၂၈ ခု ကဆုန်လဆန်း ၆ ရက်နေ့)တွင် သာမဏေရှင်ဉာဏဓဇသည် စိုင်ပြင်ရွာ ကျောင်းမကျောင်းခဏ္ဍသိမ်၌ ဆရာတော်အရှင်နန္ဒကို ဥပဇ္ဈာယ်ပြုကာ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၉ )

၁၈၆၇ အေဒီ ၁၈၆၇ ခု၊ (၁၂၂၉ ခုနှစ် နယုန်လဆန်း ၅ ရက်နေ့)တွင် မန္တလေး နေပြည်တော်သို့တက်၍ ပညာသင်ယူရန် မိမိရပ်ရွာမှ ထွက်ခွာတော်မူကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၁ )

ထိုနေ့မှာပင် စိုင်ပြင်ရွာမှ ခြေလျင်ခရီးဖြင့် ကြွတော်မူခြင်းဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၁ )

လယ်တီလောင်းလျာ ပဥ္စင်းကျော် ဦးဉာဏဓဇသည် ဝါဆိုအမီ မန္တလေးသို့ မဟာဇောတိကာရာမကျောင်းတိုက်သို့ ရောက်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၅ )

ထိုအခါ စံကျောင်းတိုက်သား တစ်ပါးဖြစ်သော ရဟန်းတော်အရှင်ဉာဏဓဇသည် ကထာဝတ္ထု ပါဠိတော်ကို တာဝန်ယူပြန်ဆိုတော်မူခဲ့သည်။

၁၈၈၀ ရဟန်းတော် အရှင်ဉာဏဓဇသည် အေဒီ ၁၈၈၀ ခု (၁၂၄၂ ခုနှစ်) ၁၄ ဝါအရတွင် စံကျောင်း ဆရာတော်ဘုရားကြီး၏ အမေးပုစ္ဆာ ၂၀ ထွက်ပေါ်လာသည်။ နိကာယ်



ငါးရပ်ပိဋကတ်ကို မွှေနှောက်ချောက်ချားပြီး ယင်းအမေးပုစ္ဆာ ၂၀ ကို ပါဠိလို ရေးသားဖြေဆိုကာ စံကျောင်းဆရာတော်ဘုရားကြီးအား ဆက်ကပ်လိုက်သည်။

၁၈၈၆ ထို့နောက် အေဒီ ၁၈၈၆ ခု၊ (၁၂၄၈ ခုနှစ်) တွင် မုံရွာမြို့အနီး လယ်တီတောအုပ်ကြီး၌ ကျောင်းတိုက် တည်ထောင်ကာ တပည့်တပန်း ရဟန်းသာမဏေများအား စာပေသင်ကြားပို့ချခဲ့ရာ ထိုအခါမှစ၍ လယ်တီဆရာတော်ဟူသော အမည်ဖြင့် ထင်ပေါ်ကျော်ကြားလာသည်။

၁၈၉၈ ယင်းသို့ လယ်တီတိုက်တွင် စာပေပို့ချတော်မူသည့်ကြားမှ အဘိဓမ္မတ္ထသင်္ဂြိုဟ်ကျမ်း၏ အဖွင့်ဖြစ်သော ပရမတ္ထဒီပနီဋီကာကို ပါဠိဘာသာဖြင့် အေဒီ ၁၈၉၈ ခု (၁၂၅၉ ခုနှစ်)တွင် အပြီးရေးသားပြုစုတော်မူသည်။

၁၉၀၀-၃၅ သို့ဖြင့်ပင် လယ်တီဋီကာ ပုံနှိပ်စာအုပ်အဖြစ် ထွက်ပေါ်လာသော အေဒီ ၁၉၀၀ - ၁၉၃၅ ခု (၁၂၆၂ခုနှစ် မှ ၁၂၉၇ ခုနှစ်လောက်အထိ ၃၅ နှစ်တိုင်တိုင် မြန်မာနိုင်ငံ၌ ဋီကာစစ်ပွဲကြီးဖြစ်ပွားခဲ့သည်။ ယင်း ၃၅ နှစ်တာ အချိန်ကာလအတွင်း ထွက်ပေါ်လာသော ဋီကာကျမ်းများမှာ ၄၀ ခန့် အရေအတွက်ရှိသည်ဟု စာရင်းအရသိရှိရသည်။

(ကျမ်းကိုး ၃၅ နှစ်ကြာ ဋီကာစစ်ပွဲအတွင်းက ထွက်ပေါ်လာခဲ့သော ပါဠိဘာသာရေး ဋီကာ ကျမ်းများနှင့် မြန်မာဘာသာရေးကျမ်းများ၏ မျက်နှာဖုံးများ ယင်းဋီကာကျမ်းပြုပုဂ္ဂိုလ်များ၏ ဓာတ်ပုံများနှင့် ဋီကာစစ်ပွဲအတွင်း ဘောင်ဘင်ခတ်ခဲ့သော စာပေလှုပ်ရှားမှုအပြည့်အစုံများကို စာမျက်နှာ (၁၀၀၀)ကျော် အတွင်းဓာတ်ပုံပေါင်း (၃၀၀)ကျော်ပါရှိသည့် လယ်တီဆရာတော် အမည်ဖြင့် စီစဉ်ရေးသားလျက်ရှိသော ဆိုက်ကြီးအရွယ်ကြီး အတ္ထုပ္ပတ္တိအကျယ် စာအုပ်ကြီး၌ ဖော်ပြထားသည်ဟု ရောဂန္တရဒီပနီ၊ မိခင် ဇရာဝတီ စာအုပ်တိုက် အမှာစာတွင် ဖော်ပြထားသည်)

၁၈၉၅ အေဒီ၁၈၉၅ ခု (၁၂၅၇ ခုနှစ်) လောက်မှ စတင်ကာ မြန်မာနိုင်ငံ အရပ်ရပ်သို့ လှည့်လည်ကြွရောက်တော်မူပြီး ဝါဆိုသင့်သော အရပ်ဒေသများတွင် ဝါဆိုလျက် ကျွတ်ထိုက်သူ ဝေနေယျတို့အတွက် နိယျာနိကာအစစ် ဗုဒ္ဓဘုရားရှင် အလိုလားဆုံးလည်းဖြစ် အနှစ်သာရလည်းဖြစ်သော ဝိပဿနာတရားရေအေး အမြိုက်ဆေးကို တိုက်ကျွေး ဟောကြားတော်မူခဲ့သည်။

ယင်းသို့ ကြွရောက်သီတင်းသုံးကာ တရားဟောရာဒေသများနှင့် ဝါဆိုရာဌာနများမှာ အောက်ပါအတိုင်းဖြစ်သည်။

၁၈၉၅ အေဒီ ၁၈၉၅ ခု (၁၂၅၇ ခုနှစ်) အိန္ဒိယနိုင်ငံ မဟာဗောဓိသို့ ကြွရောက်တော်မူသည်။ မဟာဗောဓိမှအပြန်တွင် အမြို့မြို့အနယ်နယ်သို့ လှည့်လည်ကာ တရားဟောတော်မူသည်။

၁၈၉၆ အေဒီ ၁၈၉၆ ခု (၁၂၅၈ ခုနှစ်) ဟံသာဝတီနယ် တွံတေးတောကြီးတန်း ဆပဂံတောရ၌ သီတင်းသုံးတော်မူသည်။

၁၈၉၇ အေဒီ ၁၈၉၇ ခု (၁၂၅၉ - ၆၀ - ခုနှစ် ) မုံရွာမြို့ လယ်တီတိုက်၌ သီတင်းသုံးတော်မူသည်။

၁၈၉၈ အေဒီ ၁၈၉၈ ခု (၁၂၆၀ ပြည့်နှစ်) တွင် သေက္ချတောင် ဆရာတော် အရှင်တိလောက၏ ပင့်လျှောက်ချက်အရ သေက္ချတောင်တွင် တစ်လခန့်သီတင်းသုံးတော်မူသည်။



၁၈၉၉ အေဒီ ၁၈၉၉-၁၂၆၁ ခုနှစ်၊ မုံရွာမြို့ လယ်စဉ်ရွာ ဓမ္မိကာရုံတိုက် ဓမ္မနန္ဒကျောင်း၌ ဝါကပ်တော်မူသည်။

၁၉၀၀ အေဒီ ၁၉၀၀ - ၁၂၆၂ ခုနှစ်၊ ဒီပဲယင်းမြို့၏ မြောက်ဘက် မဟာမြိုင်တောကြီး၌ ဝါဆိုတော်မူသည်။

၁၉၀၁ အေဒီ ၁၉၀၁ - ၁၂၆၃ -၆၄ ခုနှစ်၊ အလုံမြို့၏ အနောက်ဘက်လည်းဖြစ်၊ သလ္လာဝတီမြစ်၏ အနောက်ဘက်လည်းဖြစ်သော ရွှေတောင်ဦးတောင် ကျောက်ဂူ၌ ဝါဆိုတော်မူသည်။

၁၉၀၄ အေဒီ ၁၉၀၄- ၁၂၆၅ ခုနှစ်၊ မုံရွာမြို့၏ အနောက်လက်ပန်းတောင်းတောင် စကြံကျောင်း၌ သီတင်းသုံးတော်မူသည်။ ယင်းနှစ်တွင် ကင်းဝန်မင်းကြီး ပင့်လျှောက်သောကြောင့် မန္တလေးမြို့သို့ ကြွရောက်ကာ တရားဟောတော်မူသည်။

၁၉၀၅ အေဒီ ၁၉၀၅ - ၁၂၆၆ ခုနှစ်၊ ပျဉ်းမနားမြို့ မြောက်ဘက် အင်ကြင်းမြိုင်တောရ စကြံကျောင်း၌ ဝါဆိုတော်မူသည်။

၁၉၀၆ အေဒီ ၁၉၀၆ - ၁၂၆၇ ခုနှစ်၊ မြင်းခြံမြို့ ရေကန်ကြီးအနီး၌ ဝါဆိုတော်မူသည်။ ယင်းနှစ်တွင် ရန်ကုန်မြို့သို့ ကြွရောက်ကာ တရားဟောတော်မူသည်။

၁၉၀၇ အေဒီ ၁၉၀၇ - ၁၂၆၈ ခုနှစ်၊ ပြည်မြို့ ဝိပဿနာကုန်း တောရ၌ ဝါဆိုတော်မူသည်။ ယင်းနှစ်တွင် မန္တလေးမြို့သို့ ကြွရောက်ကာ မစိုးရိမ်တိုက်မှစ၍ တရားပွဲများ ကျင်းပ ဟောပြောတော်မူသည်။

၁၉၀၈ အေဒီ ၁၉၀၈ - ၁၂၆၉ ခုနှစ်၊ မင်းလှမြို့ ပတ်တန်းတောရ၌ ဝါဆိုတော်မူသည်။ ထိုနှစ်၌ပင် စစ်တွေမြို့သို့ ကြွရောက်ကာ တရားဟောတော်မူသည်။

၁၉၀၉ အေဒီ ၁၉၀၉ - ၁၂၇၀ ခုနှစ်၊ မော်လမြိုင်မြို့ ကျိုက်သန်လန်တောင်တန်းရှိ အလံတိုင်တောင်ထိပ် ဝါဆိုကျောင်း၌ ဝါဆိုတော်မူပြီး ပုသိမ်မြို့သို့ ကြွရောက်ကာ တရားဟောတော်မူသည်။

၁၉၁၀ အေဒီ ၁၉၁၀- ၁၂၇၁ ခုနှစ်၊ သာပေါင်းမြို့၌ ဝါကပ်တော်မူသည်။

၁၉၁၁ အေဒီ ၁၉၁၁ - ၁၂၇၂ ခုနှစ်၊ မုံရွာမြို့ မဟာလယ်တီတိုက်၌ ဝါဆိုတော်မူပြီး စစ်ကိုင်းမြို့ ရွှေဘိုမြို့နယ်၊ မိတ္ထီလာမြို့၊ မန္တလေးမြို့များသို့ ကြွရောက်ကာ တရားဟောတော်မူသည်။ ပလိပ်ရောဂါပပျောက်ရန်စီမံတော်မူသည်။

၁၉၁၂ အေဒီ ၁၉၁၂- ၁၂၇၃ ခုနှစ်၊ ရန်ကုန်မြို့ ညောင်ကုန်းတိုက်၌ ဝါဆိုတော်မူသည်။

၁၉၁၃ အေဒီ ၁၉၁၃- ၁၂၇၄ ခုနှစ်၊ စစ်ကိုင်းမြို့၌ ဝါဆိုတော်မူသည်။

၁၉၁၄ အေဒီ ၁၉၁၄ - ၁၂၇၅ - ၇၆- ၇၇ ခုနှစ်၊ မန္တလေးမြို့ လယ်တီစံကျောင်း၌ ဝါဆိုတော်မူသည်။

၁၉၁၇ အေဒီ ၁၉၁၇ - ၁၂၇၈ ခုနှစ်၊ ပျဉ်းမနားမြို့ အင်ကြင်းမြိုင် တောရ၌ ဝါဆိုတော်မူသည်။

၁၉၁၈ အေဒီ ၁၉၁၈ - ၁၂၇၉ ခုနှစ်၊ မုံရွာမြို့၊ မဟာလယ်တီတိုက်၌ နောက်ဆုံး ဝါဆိုတော်မူသည်။



၁၉၁၉ အေဒီ ၁၉၁၉ - ၁၂၈၀ ပြည့်နှစ်၊ မြစ်သားမြို့၌ ဝါဆိုတော်မူသည်။

၁၉၂၀ အေဒီ ၁၉၂၀ -၁၂၈၁ ခုနှစ်၊ ရန်ကုန်မြို့ ကျောင်းဝိုင်းကျောင်း၌ ဝါဆိုတော်မူပြီးနောက် ပုသိမ်မြို့သို့ ကြွရောက်ကာ သိမ်သမုတ်တော်မူသည်။ ပုသိမ်မှအပြန်တွင် သာယာဝတီခရိုင် မင်းလှမြို့၌ မန်လည်ဆရာတော်ဘုရားကြီးနှင့် ပထမဆုံးအကြိမ် တွေ့ဆုံတော်မူသည်။ ထို့နောက် ယင်းဆရာတော်ကြီး နှစ်ပါးသည် ရန်ကုန်မြို့သို့ ကြွရောက်ကာ တရားပွဲကြီးများ ကျင်းပဟောကြားတော်မူကြသည်။

၁၉၂၁ အေဒီ ၁၉၂၁ - ၁၂၈၂ ခုနှစ်၊ ကတွန်သတ္တုတွင်း၌ ဝါကပ်တော်မူသည်။

၁၉၂၂ အေဒီ ၁၉၂၂ - ၁၂၈၃ ခုနှစ်၊ စစ်ကိုင်းမြို့ ဇေတဝန်တိုက်၌ ဝါဆိုတော်မူသည်။

၁၉၂၃ အေဒီ ၁၉၂၃ - ၁၂၈၄ ခုနှစ်၊ ပျဉ်းမနားမြို့ လယ်တီစံကျောင်း၌ ဝါဆိုတော်မူသည်။

၁၉၁၅ ၇-၁၁-၁၉၁၅ (၁၂၇၇ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁ ရက် တနင်္ဂနွေနေ့)တွင် မြန်မာနိုင်ငံအစိုးရ၏ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ဆက်ကပ်လှူဒါန်းခြင်းကို ခံယူရရှိတော်မူသည်။

၁၉၁၃ အေဒီ ၁၉၁၃ ၊ (၁၂၇၅ ခုနှစ်) တွင် နိုင်ငံခြား ဗုဒ္ဓသာသနာပြုအသင်းကြီးကို ကြီးမှူးတည်ထောင်ပြီးလျှင် လန်ဒန်မြို့ရှိ ဂရိတ်ဘရိတန် အိုင်ယာလန် ဗုဒ္ဓဘာသာ သာသနာပြုအသင်းကြီးနှင့်လည်းကောင်း၊ လန်ဒန်ပါဠိစာပေအသင်းကြီးနှင့် လည်းကောင်း ဆက်သွယ်ကာ နိုင်ငံရပ်ခြားတိုင်းတစ်ပါးသို့ ဗုဒ္ဓသာသနာတော် ပျံ့နှံ့ ရောက်ရှိရေးအတွက် အားသွန်ခွန်စိုက်ကြိုးပမ်းတော်မူခဲ့ပြန်သည်။

၁၉၂၁ အေဒီ ၁၉၂၁ (၁၂၈၃ ခုနှစ်) တွင် နတ်တော်လတွင် ရန်ကုန်တက္ကသိုလ်ကျောင်းကြီး ဖွင့်လှစ်သည့် အထိမ်းအမှတ်အဖြစ်ဖြင့် တက္ကသိုလ်အဓိပတိဖြစ်သူ မြန်မာပြည် ဘုရင်ခံက စာပေပါရဂူ(ဒီလစ်)ဘွဲ့တံဆိပ် ဆက်ကပ်လှူဒါန်းသည်ကို ခံယူရရှိတော်မူ သည်။

(ကျမ်းကိုး၊ အေဒီ ၁၉၁၄၊ (၁၂၇၆ ခုနှစ်)က အဂ္ဂမဟာပဏ္ဍိတ ရရှိသူများကို ၁၂၇၇ ခုနှစ်၌ ဆက်ကပ်ပွဲ ပြုလုပ်ခြင်း ဖြစ်သည်။ ထို့ကြောင့် ဘွဲ့တံဆိပ်၌ အေဒီ ၁၉၁၄ (၁၂၇၆ ခုနှစ်) ဟု ရေးထားသည်။ ယခုအခါ လယ်တီဆရာတော်၏ ထေရုပ္ပတ္တိ အများအပြား၌ အေဒီ ၁၉၁၁ (၁၂၇၃ ခုနှစ်)က အဂ္ဂမဟာပဏ္ဍိတရသည် ဟု ရေးသားထားကြသည်မှာ မမှန်ပေ။ အေဒီ ၁၉၁၄ ၊ (၁၂၇၆ ခုနှစ်)ကြာမှ ရခြင်းသာဖြစ်သည်။ ယင်းအကြောင်းကို လယ်တီဆရာတော်ဟူသော စာမျက်နှာ ၁၀၀၀ ကျော် အရွယ်ကြီးဆိုက်ကြီး အတ္ထုပ္ပတ္တိ အကျယ် စာအုပ်ကြီး၌ အကျယ်ဖတ်ရှုကြရမည်ဟု ရောဂန္တရဒီပနီ ဒုတိယအကြိမ် ၂၀၀၁ ဒီဇင်ဘာ မိခင်ရောဝတီ စာအုပ်တိုက် အမှာစာတွင် ဖော်ပြထားပါသည်။)

၁၉၂၃ အေဒီ ၁၉၂၃၊ ဇွန်လ ၂၇ ရက်၊ (၁၂၈၅ ခုနှစ်၊ ပထမ ဝါဆိုလဆန်း ၁၅ ရက် လပြည့်နေ့) ဗုဒ္ဓဟူးနေ့ ၂ နာရီ ၃၀ မိနစ် အချိန်တွင် ပျဉ်းမနားမြို့၌ သီတင်းသုံး တော်မူစဉ် စုတိကမ္မဇရုပ် ချုပ်ငြိမ်းတော်မူသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင် စာ ၂၃၉)



## မူလပထမ မုံရွာမြို့ ကျေးငူးရှင် လယ်တီဆရာတော်ဘုရား ရှာဖွေတွေ့ရှိတော်မူခဲ့သော သုဝဏ္ဏဘူမိခေတ် ဆံတော်ရှင်စေတီတော်များ

လယ်တီဆရာတော်ဘုရားကြီးသည် သုဝဏ္ဏဘူမိဆံတော်ရှင်များ သာသနာကို ရှာဖွေတော်မူခဲ့သည်။ တွေ့ရှိတော်မူခဲ့သည်။ ကြွရောက်၍ဖူးမြော်တော်မူခဲ့သည်။ ထိုမျှသာမကသေး။ ဆံတော်ရှင်ကုသိနာရုံတွင် တရားဘာဝနာများ ထူးထူးခြားခြားအားထုတ်တော်မူခဲ့သေးသည်။

ထို့ကြောင့်ပင်လျှင် သုဝဏ္ဏဘူမိဆံတော်ရှင်များ သာသနာကို ဖွင့်ဖော်လျက်ရှိသော ကျိုက်ထီးဆောင်းဆရာတော်ဘုရားကြီးသည် လယ်တီဆရာတော်ဘုရားကြီး တရားအားထုတ်တော်မူခဲ့သောနေရာကို တခမ်းတနား အထိမ်းအမှတ်ပြုထားကြောင်းသိရှိရပါသည်။

၁၉၁၃ လယ်တီဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၁၃ ၊ (၁၂၇၅)ခုနှစ်တွင် အိန္ဒိယနိုင်ငံ၊ မဟာဗောဓိသို့ ကြွရောက်တော်မူကြောင်း သိရှိရပါသည်။

၁၈၉၆ အေဒီ ၁၈၉၆ (၁၂၅၈)ခုနှစ်တွင် ဟံသာဝတီနယ်၊ တွံတေးတောကြီးတန်း ဆပဂံတောရ၌ သီတင်းသုံးတော်မူခဲ့ကြောင်း သိရှိခဲ့ရပြန်ပါသည်။

၁၈၉၉ အေဒီ ၁၈၉၉ (၁၂၆၀) ပြည့်နှစ်တွင် သေကျွတောင်ဆရာတော် အရှင်ဦးတိလောက ပင့်လျှောက်ချက်အရ သေကျွတောင်တွင် တစ်လခန့် သီတင်းသုံးတော်မူကြောင်း သိရပါသည်။

မုံရွာမြို့ မဟာလယ်တီတိုက် ကျမ်းပြုအကျော် လယ်တီဆရာတော်ဘုရားကြီးသည် ဆံတော်ရှင်ကျိုက်ထီးရိုးသို့ ကြွတော်မူကြောင်း၊ တစ်ဖန် ဆံတော်ရှင် ကုသိနာရုံ စေတီတော်မြတ်သို့ ကြွတော်မူကြောင်း ခိုင်မာသော အထောက်အထားများရှိပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင် စာ ၁၂၆)

ကျိုက်ထီးရိုးဘုရားသို့ ဘုရားဖူးကြွတော်မူခြင်းမှာ အလွန်ထူးခြားလှပါသည်။ ဆရာတော်ကြီးသည် တပည့်ကြီးဦးတိလောက၏နေရာ သေကျွတောင်စခန်း၌ တရားအားထုတ်ခဲ့ကြောင်းသိရပါသည်။ ကမ္မဋ္ဌာန်းတရားများအား ထုတ်တော်မူပြီးနောက် ကျိုက်ထီးရိုးဆံတော်ရှင်ဘုရားကိုဖူးရန် တောအထပ်ထပ်တောင်အထပ်ထပ်ကို ဖြတ်ကျော်လျက် ကြွတော်မူကြောင်းသိရပါသည်။

နောက်တော်ပါးတွင် ပဏ္ဍိတဝေဒနိယကျမ်းပြုအကျော် သေကျွတောင်ဆရာတော် ဦးတိလောက ကိုယ်တော်ကြီးနှင့်တကွ အခြားအခြားသောတပည့်များလည်း ပါသေးကြောင်းသိရပါသည်။

ထိုအချိန်အခါတွင် တောတို့သည်ထူထပ်လျက်ရှိကြောင်း၊ နက်ရှိုင်းကြောင်း၊ လျှိုမြောင်အထပ်ထပ်ကိုဖြတ်ကျော်ကာ ကြိုးကြိုးစားစား ကြွချီတော်မူသည်မှာ လယ်တီဆရာတော်ဘုရားကြီး၏ သုဝဏ္ဏဘူမိဆံတော်ရှင်များအပေါ် ထားရှိအပ်သော ကြီးမားသည့် သဒ္ဓါတရားကြီးကြောင့် ဖြစ်ကြောင်း ခန့်မှန်းနိုင်ပါသည်။

ထိုအခါက ကျိုက်ထီးရိုး ဆံတော်ရှင်သို့အသွား လမ်းခရီးအကြားတွင် ဆင်ကြီးများရှိလေသည်ဟုဆိုပါသည်။ ထိုဆင်ကြီးများသည် ဘုံဘေဘားမားသစ်ကုမ္ပဏီမှ သစ်ခုတ်သူများ ပိုင်ဆိုင်သော ဆင်များဖြစ်ကြောင်းသိရပါသည်။

ဆင်ကြီးတစ်ကောင်သည် ဆရာတော်ကြီးနောက်သို့ ပြေး၍လိုက်လာကြောင်း သိရပါသည်။ ထိုအခါ လယ်တီဆရာတော်ဘုရားကြီးနောက်တော်တွင်ပါ၍လာသော



တပည့်တို့မှာ အခွနှစ်ခွရှိသော သစ်ပင်ကြီးထက်သို့ ကြောက်လန့်တကြား တက်ပြေးကြကြောင်းသိရပါသည်။

ထိုသို့တက်ပြေးသောသူများထဲတွင် သေက္ခတောင်ဆရာတော် ဦးတိလောကလည်း ပါဝင်ကြောင်းသိရပါသည်။

လယ်တီဆရာတော်ဘုရားကြီးကား မတုန်မလှုပ် သမာဓိကြီးစွာနှင့်ပင် ဆက်လက်ကြွတော်မူသည်ဟုဆိုပါသည်။

**ရှေ့ကကြွတော်မူရင်း 'တောကျောင်းနေပြီး ရဟန်းကိစ္စ ချောမောလုပါပြီဆိုတဲ့ ရဟန်းဟာ ဆင်လာနေတာကို ကြောက်ရသေးသလား'ဟု မိန့်တော်မူကြောင်း သိရပါသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၅ )

လယ်တီဆရာတော်ဘုရားကြီးသည် ဆံတော်ရှင်ကျိုက်ထီးရိုးရင်ပြင်တော်ပေါ် သို့ ရောက်ရှိသောအခါ ချက်ချင်းမပြန်သေးဘဲ တစ်နေ့တစ်ညတိတိ သီတင်းသုံးတော်မူသေးကြောင်းသိရပါသည်။

တစ်နေ့နှင့် တစ်ညလုံးလုံး ဘုရားဝတ်ပြုခြင်းစသော ဗုဒ္ဓဝေယျာဝစ္စ တရားအားထုတ်ခြင်းများ ပြုလုပ်တော်မူပြီးနောက် သေက္ခတောင်သို့ ပြန်လည်ကြွလာတော်မူကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၅ )

ခရီးပန်းပြေပြီးနောက် ခရီးဆက်လက်၍ကြွတော်မူကြောင်းသိရပါသည်။ ဦးတိလောက ကိုယ်တော်ကြီးမှာကား ထိုတောင်မှာပင် ဆက်လက်၍တရားအားထုတ်တော်မူကြောင်းသိရပါသည်။

ကျိုက်ထီးရိုးဆံတော်ရှင်သို့ သွားရာလမ်းခရီးတွင် လက်ယာဘက်တစ်နေရာရာတွင် သေက္ခတောင်ကြီးကို ယနေ့တိုင် တွေ့မြင်နိုင်ပါသေးသည်။

သေက္ခတောင် ဦးတိလောကသည် လယ်တီဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်ကြောင်း၊ လယ်တီတိုက်တည် စ,ကာလကပင်လျှင် လယ်တီဆရာတော်ဘုရားကြီးထံတွင် ပိဋကတ်နှင့်တကွ နိကာယ်အရပ်ရပ်ကို တတ်မြောက်အောင်သင်ကြားတော်မူခဲ့ကြောင်းသိရပါသည်။ ၄င်းနောက် ကျိုက်ထိုမြို့အနီး သေက္ခတောင်တောကြီးသို့ တစ်ကိုယ်တည်းတောထွက်၍ တရားအားထုတ်တော်မူခဲ့ကြောင်းသိရပါသည်။

ဦးတိလောကသည် ပြင်းပြသော သမ္ဗေဂါန်လုံလဖြင့် မဟာတပခေါ်သော အကျင့်မြတ်ကိုကျင့်၍ ကပ္ပိယတစ်ဦးနှင့်ရဟန်းတပည့် သုံးလေးဦးမျှဖြင့်နေတော်မူကြောင်းသိရပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင် စာ ၁၂၃)

ထိုတောရတွင် နှစ်ခန်းကျောင်းအုတ်တိုက်၏ထွက်ဝင် တံခါးပေါက်ကို အုတ်အင်္ဂတေဖြင့် အသေပိတ်စေပြီးလျှင် 'ငါသည် ဈာန်ရမှသာ ဤအုတ်ဂူထဲမှ ဈာန်တန်ခိုးဖြင့်ထွက်အံ့'ဟူ၍ ကြုံးဝါးတော်မူကြောင်းသိရပါသည်။

ထိုကျောင်းတွင် ဆွမ်းတစ်ထပ်မျှသာဘုဉ်းပေးတော်မူကြောင်း၊ ညောင်းညာလျှင် ထိုကျောင်းတွင်ပင် စင်္ကြံလျှောက်တော်မူကြောင်းသိရပါသည်။

ဆွမ်းအုပ်သွင်းရန်အတွက် အပေါက်တစ်ခုနှင့် ကျင်ကြီးကျင်ငယ်ထုတ်ရန် အပေါက်တစ်ခုစီသာထားကြောင်း၊ နေ့ ည အားထုတ်တော်မူကြောင်းသိရပါသည်။

ဤနည်းဖြင့် တစ်နှစ်ကြာလျှင် ထိုအုတ်ကျောင်းငယ်မှထွက်၍ ကျေးဇူးရှင် ဆရာတော်ဘုရား ဖြစ်သည့် လယ်တီဆရာတော်ဘုရားထံသို့ 'တပည့်တော်ခုနေအခါ



သပ္ပုရိသ အမှီသဟဲရခဲ့ပါလျှင် ရဟန်းကိစ္စ ချောမောပါတော့မည်' စသဖြင့် လျှောက်ထားတော်မူကြောင်းသိရပါသည်။

လယ်တီဆရာတော်ဘုရားကြီးသည် တပည့်အရင်းဖြစ်သည့် ဦးတိလောက၏ ပင့်လျှောက်ချက်အရ သနားစွာလက်ခံ၍ လယ်တီတောရတိုက်မှ နောက်ပါ တပည့်များနှင့် ကြွတော်မူကြောင်းသိရပါသည်။

ထိုသို့ကြွတော်မူသောအခါ ပဏ္ဍိတမည်သော တပည့်နှစ်ပါး ပါခဲ့ကြောင်း သိရပါသည်။

ပဏ္ဍိတအမည်ရှိ တပည့်တစ်ပါးမှာ လယ်တီပဏ္ဍိတနှင့် မုံရွာမြို့အနီး ခိုးသန်းရွာဇာတိ ဦးပဏ္ဍိတတို့ဖြစ်ကြောင်းသိရပါသည်။ ခိုးသန်းဦးပဏ္ဍိတမှာ လူဝတ်လဲပြီးနောက် ခိုးသန်းရွာဦးကျောင်းဒကာဖြစ်လာသည်။ လယ်တီပဏ္ဍိတထက် လေးနှစ်ခန့် အသက်ကြီးကြောင်းသိရပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင် စာ ၁၂၄)

၁၈၉၈ လယ်တီဆရာတော် ဘုရားကြီး ကျိုက်ထီးရိုးဆံတော်ရှင်ဘုရားသို့ ကြွတော်မူသောနှစ်မှာ အေဒီ ၁၈၉၈ ခု၊ ဒီဇင်ဘာလ (၁၂၆၀)ပြည့် နတ်တော်လဖြစ်ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ လယ်တီဦးလှပိုင်၏ လယ်တီ ဂန္ထဝင်ကျော်များသမိုင်းစာမျက်နှာ (၁၂၃၊၁၂၄၊၁၂၅) တို့ကိုကြည့်လျှင်သိနိုင်ပါသည်။ လယ်တီဆရာတော်ဘုရား၏ ရောဂန္တရဒီပနီ၊ မိခင်ဇရာဝတီ တိုက်ထုတ်စာအုပ်စာမျက်နှာ (၃၂)ကိုလည်းကြည့်ပါ။)

## ရဟန္တာဟုကျော်ကြားသော ဘုန်းတော်ကြီးဦးနုအကြောင်း

ဘုန်းတော်ကြီးဦးနုမှာ လယ်တီဆရာတော်ဘုရားကြီး ရုပ်ကလာပ်တော် တေဇောဓာတ်လောင်ခြင်းနှင့်စပ်လျဉ်း၍ အလွန်ကျော်ကြားသော ဘုန်းတော်ကြီးဖြစ်ပါသည်။ လယ်တီဆရာတော်ဘုရားကြီးမီးသဂြိုဟ်သောကိစ္စ ရှင်းလင်းပြီးစီးသောအခါ ဘုန်းတော်ကြီးဦးနုသည် ပျဉ်းမနားမှရေစကြိုသို့ ထွက်သွား၏။

၎င်းနောက် ရေစကြိုနယ်တွင် လှည့်လည်သီတင်းသုံးနေကြောင်း သိရပါသည်။ ဂျပန်ခေတ်တွင် ရေစကြိုတောရကျောင်း၌ ပျံလွန်တော်မူကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင် စာ ၂၄၈)

၎င်း ဘုန်းတော်ကြီး ဦးနုအကြောင်းနှင့် စပ်လျဉ်း၍ အေဒီ ၁၉၆၄ ၊ ဧပြီလ ၂၅ ရက်၊ စနေနေ့ (၁၃၂၆ ခုနှစ်၊ ကဆုန်လဆန်း ၁၅ ရက်)ထုတ် မိုးကြိုးသတင်းစာကြီးတွင် အကျယ်တဝင့် ပါရှိခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၁ )

ထိုအကြောင်းအရာများသည် လယ်တီဆရာတော်ဘုရားကြီးနှင့်လည်း စပ်လျဉ်းနေ၏။ ဘုန်းတော်ကြီးဦးနုနှင့်လည်းစပ်လျဉ်းနေ၏။ ထို့ကြောင့် ထိုအချက်ကိုသိရလျှင် ဘုန်းတော်ကြီး ဦးနုအကြောင်းလည်း တစ်စေ့တစ်စောင်းသိရမည်ဖြစ်ပါသည်။ ထို့ကြောင့် ဘုန်းတော်ကြီးဦးနုခေါ် ဆရာတော်ဦးပညာသီဟကိုယ်တော်တိုင် ပြောကြားသဖြင့် သိရှိရချက်များကို ကျားကူးဆရာတော်က ထပ်မံအမိန့်ရှိသဖြင့်သိရှိရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၈ )

ထိုသိရှိရချက်ကို သတင်းစာမှုရင်းအတိုင်း အောက်တွင်ဖော်ပြပါမည်။



(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ၁၉၆၇ ခု၊ ဩဂုတ်လ၊ စာ ၂၄၁ - ၂၄၈၊ မိုးကြိုးသတင်းစာ၊ ၁၃၂၆ ခု၊ ကဆုန် လဆန်း ၁၅ ရက်)

ဆရာတော် ဦးပညာသီဟ (ဘုန်းကြီး ဦးနု)၏ဇာတိမှာ ရေစကြိုမြို့နယ် သပြေပင် ခွေးမြှုပ်ရွာဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၂ )

**လူသူကင်းရှင်း ဆိတ်ငြိမ်ရာတို့တွင် လှည့်လည် တရားအားထုတ် ကျင့်ကြံသည့် ဓုတင်ဆောင် ပုဂ္ဂိုလ်တစ်ဦးဖြစ်သည်။ ရေစကြိုနယ်တွင် ဦးနုတောရကျောင်း ၄ ခုလောက်ရှိသည်။ ရဟန္တာဟုလည်းကျော်ကြားခဲ့သော ပုဂ္ဂိုလ်ဖြစ်သည်ဟု သိရှိရသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၂ )

ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် တေဇောဓာတ် လောင်ကျွမ်းသွားခြင်းနှင့်ပတ်သက်၍ ယနေ့တိုင် သက်တော်ထင်ရှားရှိတော်မူ၍ ပျဉ်းမနားမြို့လယ်တီစံကျောင်းတော်၌ သီတင်းသုံးနေထိုင်လျက်ရှိသည့် ဆရာတော် ဦးဥေယျလည်းသိသည်ဟု ဘုန်းကြီးဦးနုက ပြောကြားခဲ့ကြောင်းဖြင့် ကျားကူး ဆရာတော်က ဆက်လက်အမိန့်ရှိတော်မူပြန်သည်။

၁၉၆၃ သားကောင်၏ အနံ့ရလျှင် မရမနေ လိုက်လေ့ရှိသော အမဲလိုက်ခွေးတို့ကဲ့သို့ သတင်းထူးသတင်းဆန်းကြီးတစ်ခု အနံ့ရလျှင် မရမကစုံစမ်းလိုသော သတင်းစာ သမားတို့၏ ဝါသနာအရ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ အထက်ပါ သတင်းထူး သတင်းဆန်းကြီးကို အတိအကျလေ့လာ စုံစမ်းရန်နှင့် သက်သေအထောက် အထားခိုင်လုံစွာရရှိစေရန် ကျားကူးဆရာတော်၏ နတ်လမ်းညွှန်ချက်အတိုင်း ၁၉၆၃ ခုနှစ်၊ ဇူလိုင်လ ၁၈ ရက်နေ့တွင် ပျဉ်းမနားမြို့သို့ခရီးထွက်ခဲ့ပါသည်။

ထိုစဉ်က ပျဉ်းမနားခရိုင် သတင်းထောက်အသင်း ဥက္ကဋ္ဌ ဦးအုန်းမောင်၏ အကူအညီဖြင့် လယ်တီစံကျောင်းဆရာတော် ဦးဥေယျအား ဖူးမြော်ခွင့်ရရှိပါသည်။ ဆရာတော်ဦးဥေယျမှာ ဆဋ္ဌသင်္ဂါယနာကထာ ဝိသဇ္ဇကအဖွဲ့ဥက္ကဋ္ဌ ပဋိဝိသောဓက ဆရာတော်အဖြစ်လည်း ဆောင်ရွက်တော်မူခဲ့သည့်အပြင် ပျဉ်းမနားခရိုင် ဝိနိစ္ဆယ ဌာနဩဝါဒစရိယ ဆရာတော်အဖြစ်လည်းကောင်း၊ လယ်တီ နိုင်ငံခြားသာသနာပြု အဖွဲ့ကြီး၏ အုပ်ချုပ်ရေးမှူးချုပ်အဖြစ်လည်းကောင်း ဆောင်ရွက်တော်မူသည်။

၎င်းသည် ၁၅ နှစ်သားအရွယ်မှစ၍ လယ်တီဆရာတော်ဘုရားကြီး ပျံလွန် တော်မူသွားသည့်တိုင် ဆရာတော်ဘုရားကြီးကြွလေရာ ဒေသအသီးသီးတို့သို့ ထက်ကြပ်မကွာလိုက်ပါ၍ ဝတ်ကြီးဝတ်ငယ်ပြုစုရင်း စာပေကျမ်းဂန်တို့ကို သင်ကြား တတ်မြောက်ခဲ့သည်။

ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ် ထူးဆန်းစွာ တေဇောဓာတ် လောင်ကျွမ်းသွားခြင်းနှင့်ပတ်သက်၍ ဆရာတော်ဦးဥေယျက အောက်ပါအတိုင်း ဖြေကြားအမိန့်ရှိတော်မူပါသည်။



ကျားကူးဆရာတော် မိန့်ကြားသည့် ရဟန္တာဟုကျော်ကြားခဲ့သော ဘုန်းကြီးဦးနုသည် လယ်တီဆရာတော် စစ်ကိုင်းသို့ တရားဟောကြွစဉ် လာရောက်ဖူးမြော်ပြီး လယ်တီဆရာတော်ဘုရားကြီး၏ ဒီပနီများ တရားအားထုတ်နည်းများနှင့် ကျင့်ကြံအားထုတ်သည့် ဝိနည်းသိက္ခာပုဒ်တို့ကို ကြည်ညိုလေးစားသဖြင့် ထက်ကြပ်မကွာဝတ်ကြီးဝတ်ငယ် လိုက်လံပြုစုရင်း တရားအားထုတ် ကျင့်ကြံတော်မူသည်။

ဘုန်းကြီးဦးနုသည် လယ်တီဆရာတော်ဘုရား၏ အဆုံးအမ မိန့်မှာကြားသမျှတို့ကို တစ်သဝေမတိမ်း လိုက်နာဆောင်ရွက်သူဖြစ်သည်။

ပျဉ်းမနားမြို့ ဦးလန်းတိုက်၌ လယ်တီဆရာတော် နောက်ဆုံး နာမကျန်းဖြစ်တော်မူနေစဉ် ဆရာတော်၏ ဆန္ဒရှိသော်လည်း ဝေဒနာနှင့် မသင့်လျော်၍ မတိုက်ကျွေးသောဆေးကို ဘုန်းကြီးဦးနုက အများမသိအောင် တိုက်ကျွေးခဲ့သည်။ ၎င်းအားမေးသောအခါ ဆရာတော်ခိုင်း၍ တိုက်ကျွေးရခြင်းဖြစ်ကြောင်း ဖြေကြားလေ့ရှိသည်။

ကိုယ်တိုင်ဆွမ်းခံစားသည်။ အခြားသံဃာများနှင့် ရောရောနှောနှောမနေ၊ တစ်ဦးတည်း သစ်တစ်ပင်ရင်းတွင် သပိတ်တွင် ပတ္တပိဏ္ဍ ဆွမ်းဘုဉ်းပေးသည်။

ကျေးဇူးရှင် လယ်တီဆရာတော် ဘုရား၏ ရုပ်ကလာပ်တော်ကို တေဇောဓာတ်လောင်စေရန်ပြုလုပ်သူ တရားခံမှာလည်းဘုန်းကြီးဦးနုပင်ဖြစ်သည်။

၁၉၂၃ လယ်တီဆရာတော်ဘုရားကြီးသည် ပျဉ်းမနားမြို့ သာကောင်ရပ်ရှိ သူဌေးဦးလန်းတိုက်၌ တစ်လခန့် နာမကျန်းဖြစ်တော်မူပြီး အေဒီ ၁၉၂၃ ၊ ဇွန်လ ၂၇ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၂၈၅ ခုနှစ် ပထမဝါဆိုလပြည့်နေ့) မွန်းလွဲ ၂ နာရီအချိန်တွင် ပျံလွန်တော်မူသည်။

## မြေလျှင်လှုပ်ခြင်း

ဆရာတော်နာမကျန်းဖြစ်၍ ၇ ရက်အကြာ လက်ဖက်ရည်ကြမ်း ဘုဉ်းပေးနေစဉ် မြေလျှင်လှုပ်သဖြင့် လူပြည်လောကမှာ တရားဓမ္မလောက ဟောရတာ အားရလောက်ပါပြီ။ နတ်တွေ ဗြဟ္မာတွေကို တစ်လှည့်ဟောရန် အချိန်တော်ပေပြီ ဆရာတော်ဘုရားအမိန့်ရှိတော်မူသည်။ ပျံလွန်တော်မူခါနီးတွင်လည်း ဒုတိယအကြိမ် မြေလျှင်လှုပ်ပြန်သည်။

ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးသည် ယခုအချိန်တွင် ဗြဟ္မာပြည် ဝေဟပ္ဖိုလ်ဘုံ၌ ရောက်နေသည်ဟုပြောလျှင် ယုံကြည်နိုင်သူ ဦးရေများမည်မဟုတ်ပေ။

ဆရာတော်ဘုရား ပျံလွန်တော်မူပြီး ၇ ရက်မြောက်သောနေ့တွင် ဦးလန်းတိုက်မှ ပျဉ်းမနားမြို့ ရန်အောင်ကုန်းမြင့်ရှိ (ယခုဆရာတော် ဦးဥေယျသီတင်းသုံးနေထိုင်သော ဒုတိယစံကျောင်းကုန်းမြေ) စံကျောင်းသို့ ပင့်ဆောင်သည်တွင်လည်း တတိယအကြိမ် မြေလျှင်တစ်ကြိမ်လှုပ်ပြန်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၄ )

## သက်မဲ့ဝတ္ထုကို ပူဇော်ကြခြင်း

ထူးခြားချက်တစ်ရပ်မှာ အလောင်းတော် စံကျောင်းရောက်ပြီး ၇ ရက်အကြာ ကျောင်း



အတက်အဆင်း လှေကားနှင့်မနီးမဝေးရှိ အခေါက်များပင် မရှိတော့သည့် သရက်ပင်သေခြောက်ကြီးမှ ရုတ်တရက် ရွက်နုများဖြာထွက်လာပြီး အန္တိမ သဘင်ဆင်ယင်သည့် တပေါင်းလအထိ အဖူးအပွင့် အသီးများနှင့် ဝေဆာလျက်ရှိခြင်းပင်ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၄ )

**ဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော်မှာလည်း ကျိန်းစက်နေဘိသည့်အလား မပုပ်မသိုးဘဲ မူလပကတိအတိုင်းတည်ရှိနေသည်။ ဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော်ကို ရယူလိုကြသော မုံရွာမှတပည့်များနှင့် တရားဖြစ်နေ၍ စံကျောင်းတော်၌ အလောင်းတော် အပူဇော်ခံထားစဉ် ရဲများအစောင့်ချထားရသည်။**

အမှုတွင် ပျဉ်းမနားကနိုင်သဖြင့် ထိုနှစ်တပေါင်းလ၌ အဂ္ဂိအန္တိမဈာပနသဘင်ကို စည်ကားသိုက်မြိုက်စွာနှင့် ဆင်ယင်ကျင်းပသည်။ အဂ္ဂိအန္တိမဈာပနသဘင်သို့ မျက်နှာဖြူလူမျိုး စစ်ကိုင်းတိုင်းမင်းကြီး ပဲခူးတိုင်းမင်းကြီး ပျဉ်းမနားအရေးပိုင် နယ်ပိုင်တို့အပြင် ရသေ့ကြီးဦးခန္တီအစရှိသော ဂိုဏ်းပေါင်းစုံမှ ဆရာတော်ကြီးအပါး ၅၀ ခန့်နှင့် လယ်တီပဏ္ဍိတ ဆရာမောင်ကြီး အပါအဝင် လူပုဂ္ဂိုလ်ကြီးများလည်း ကြွရောက်ကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၅ )

၇ ရက်တိုင်တိုင် အခမ်းအနားကို ကျင်းပသည့် တပေါင်းလပြည့်နေ့တွင် အထက်ပါစံကျောင်းကုန်းမြေဂူ၌ အသင့်ပြုလုပ်ထားသော အုတ်ဘေး၌ နံ့သာထင်းများဖြင့် မီးသင်္ဂြိုဟ်ရန်စီမံကြသည်။ ရုပ်အလောင်းတော်မှာ မပုပ်မသိုးဘဲ မူလရုပ်ပကတိအတိုင်းတည်ရှိနေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၅ )

ဆရာတော် ဦးဥေယျ အပါအဝင် တပည့်တကာများနှင့် ဆရာတော်များစုက မီးမသင်္ဂြိုဟ်ဘဲ ဂူသွင်းရန် ဆုံးဖြတ်တော်မူကြပြီး ရုပ်အလောင်းကို ထိုနေ့က စံကျောင်း၌ထား၍အပူဇော်ခံသည်။

တပေါင်းလပြည့်ကျော် ၁ ရက်နေ့တွင် ဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော်ကို စစ်ကိုင်းမင်းကြီး ပဲခူးတိုင်းမင်းကြီး အရေးပိုင် နယ်ပိုင် ဂိုဏ်းပေါင်းစုံ ဆရာတော်များ ရဟန်းရှင်လူပရိသတ်များရှေ့မှောက်၌ မှန်စီရွှေချခေါင်းထဲသို့ လွှဲပြောင်းထည့်ပြီး အုတ်ဂူတွင်းရှိ ပလ္လင်ပေါ်သို့တင်သည်။

ထို့နောက် ဂူပေါက်မှ သံတံခါး ၂ ထပ်ကို အာမခံ သော့ခလောက်များနှင့် ခတ်ပြီး ထိုဂူပေါက်ကို အုတ်အင်္ဂတေတို့ဖြင့် အသေပိတ်လိုက်သည်။

အုတ်ဂူအတွင်းမှ သံတံခါးသော့ကို အရေးပိုင်နယ်ပိုင်ထံတွင် တစ်ချောင်းစီထားသည်။ ထိုညတွင် အုတ်ဂူနှင့် မလှမ်းမကမ်းရှိ မဏ္ဍပ်တွင်းဝယ် ဝေဠုန်ဝန်ဒွါရဂိုဏ်းဆရာတော်များ စစ်ကိုင်း ရွှေကျင်ဂိုဏ်းဆရာတော်များနှင့် တိုင်လွန်းဆရာတော် တောင်တွင်းဆရာတော် အစရှိသည့် ရှေးမှီဆရာတော်ကြီးများအပါအဝင် ဆရာတော်ကြီး ၃၃ ပါးခန့်တို့သည် လယ်တီဆရာတော်ဘုရားကြီး၏ ကျေးဇူးတော်



ဂုဏ်များကို ချီးကျူးထုတ်ဖော် ဆွေးနွေးတော်မူနေကြသည်။

ညဦးသန်းခေါင်ကျော် အချိန်မှစ၍ မြေလျှောင်သုံးကြိမ်လှုပ်သည်။ နံနက်အရုဏ်တက်၌ ဆရာတော်ဦးဥေယျကိုယ်တော်တိုင် အာဂန္တုဆရာတော်များ၏ ဆွမ်းကွမ်းကိစ္စများ စီမံဆောင်ရွက်နေစဉ် ဘုရားအရုဏ်ဆွမ်းလာကပ်ကြသော ဒကာမကြီးအချို့သည် ဆရာတော်ဦးဥေယျထံသို့ မောပန်းတကြီး ရောက်ရှိလာကြပြီး လယ်တီဆရာတော်ဘုရားကြီး၏အုတ်ဂူမှ အုတ်အချို့ ပြိုကျနေကြောင်းလျှောက်ကြားကြသည်။

၎င်းတို့၏လျှောက်ကြားချက်အရ ဆရာတော်ဦးဥေယျကိုယ်တော်တိုင် သွားကြည့်ရာ အနောက်ဘက်မှ အုတ်ဂူပေါက်နေသည်ကိုတွေ့ရသော်လည်း အတွင်းသံတံခါးမှ သော့များလည်းမပျက်၊ ရုပ်ကလာပ် ထည့်သွင်းထားသည့် ခေါင်းမှာလည်း ပလ္လင်ပေါ်တွင် မူလအတိုင်းတွေ့ရှိ ရသဖြင့် စိတ်အေးသာစွာနှင့် ပြန်လာကာ ညက မြေလျှောင်လှုပ်၍ ဂူပေါက်သွားသည်ထင်ကြောင်းဖြင့် ဆရာတော်ဦးဥေယျက ဆရာတော်ကြီးများအားလျှောက်ကြားသည်။

ဤတွင် ဆရာတော်ကြီးများက တစ်ညလုံးလဲ အဲဒီအုတ်ဂူပတ်လည်မှာ ဖယောင်းတိုင် မီးများပမာ မှိတ်ချည် လင်းချည်နှင့် မီးတွေတွေ့တယ်၊ လူတွေ ထွန်းညှိပူဇော်တဲ့ မီးဆိုရင်လည်း ၁၀နာရီ ၁၁ နာရီဆိုရင် ငြိမ်းသွားရမယ်၊ ခုတော့ မြေလျှောင်လှုပ်ပြီးလဲ မီးတွေဟာမငြိမ်းဘူး၊ တို့လဲ အဲဒီမီးတွေကိုလည်း မကြာခဏ အကဲခတ်ကြည့်ရှုနေတာပဲဟု အမိန့်ရှိကြသည်။

မြို့ထဲမှ လူပုဂ္ဂိုလ်အချို့ကလည်း မြေလျှောင်လှုပ်ပြီးချိန်မှာ ကောင်းကင်မှ တူရိယာသံများ ကြားရကြောင်းဖြင့်ပြောလာကြသည်။

## တေဇောဓာတ်လောင်ကျွမ်းခြင်း

ထို့ကြောင့် ဆရာတော် ဦးဥေယျအနေနှင့် သံသယဖြစ်လာကာ ချက်ချင်းပင် အရေးပိုင် နယ်ပိုင် ရာဇဝတ်ပိုင်နှင့် ဒကာကြီး ဦးလန်းတို့အား သွားရောက်အကြောင်းကြားသည်။ အရေးပိုင်နှင့် နယ်ပိုင်တို့ လိုက်လာပြီး သံတံခါးသော့ကို ဖွင့်ကြည့်ရာ အလောင်းတော်ရုပ်ကလာပ်ကို မတွေ့ရတော့ဘဲ တေဇော ဓာတ်လောင်ကျွမ်းထားသည့် ပြာများကိုသာတွေ့ရသဖြင့် ဆရာတော်ဦးဥေယျမှာ စိတ်အထိခိုက်ကြီးထိခိုက်သွားသည်။ မုံရွာသားတွေထဲက လာရောက်ဖျက်ဆီး သွားလေသလားဟု သံသယရှိသဖြင့် ရဲဘက်ကိုအကြောင်းကြားရာ ရဲဘက်မှချက်ချင်းပင် ရန်ကုန် မန္တလေး စစ်ကိုင်း မုံရွာသို့ စုံထောက်များစေလွှတ်စုံစမ်းစေသည်။ ပျဉ်းမနား ဘူတာမှာလည်း မုံရွာသို့သွားသည့်ခရီးသည် မည်မျှရှိသည်ကို လက်မှတ်များစစ်ဆေးသည်၊ အပူတပြင်း လိုက်လံစုံစမ်းသော်လည်း တရားခံမပေါ်ခဲ့ပေ။

ထိုသို့ဖြစ်ပြီးနောက် ၃ ရက် လောက်အကြာတွင် လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်မှာ အလိုအလျှောက် တေဇောဓာတ် လောင်ကျွမ်းသွားကြောင်းဖြင့် သတင်းစာတစ်စောင်တွင် ကြော်ငြာထည့်လိုက်သည်။ ဘယ်သတင်းစာရယ်လို့တော့ မမှတ်မိတော့ဟုဆိုသည်။

## လက်သည် မည်သူနည်း



ထိုကိစ္စတွင် လက်သည်မပေါ်သဖြင့် ဆရာတော်ကြီးများလည်း ပြန်မကြွနိုင်ကြဘဲ ဆက်လက်သီတင်းသုံးကာ စုံစမ်းခြင်းအမှုတို့ကိုပြုကြသည်။ အရေးပိုင်နယ်ပိုင်တို့ကလည်း တစ်လတစ်ခေါက်လောက် ကျောင်းတိုက်သို့လာရောက်ကာ အုတ်ဂူကိုကြည့်ရှုပြီး စုံစမ်းခြင်းအမှုပြုလုပ်ကြသည်။

ယင်းသို့ဖြစ်ပြီး ၃ လခန့်အကြာတွင် ဈာပနကော်မတီ ဥက္ကဋ္ဌများ ဖြစ်ကြသော သူဌေးဦးလန်းနှင့် ဦးထွန်းလှိုင်တို့အား အရေးပိုင်တို့က ထိုကိစ္စကို ခင်ဗျားတို့ပေါ်အောင်ဖော်ရမည်။ လက်သည်ကိုရှာပေးရမည်၊ မရှာပေးနိုင်လျှင် ထိုက်သင့်သော အပြစ်ဒဏ်ကိုပေးမည်ဟု ဧည့်ခံမဏ္ဍပ်ကြီးအတွင်းရှိ ရဟန်းရှင်လူပရိသတ်များ ရှေ့ဝယ်ပြောကြားသည်။

ခဏမျှ ငြိမ်သက်နေသဖြင့် ပရိသတ်ကြီးထဲမှ ဘုန်းကြီးဦးနုသည် ဖြုန်းခနဲ မတ်တပ်ရပ်လိုက်သဖြင့် အားလုံးက ၎င်းအားစူးစိုက်ကြည့်ရှုနေကြသည်။ ထိုစဉ် ဒီကိစ္စနှင့် ပတ်သက်၍ အပြစ်မရှိသည့်သူကို အပြစ်ယူလို့ ဖြစ်နိုင်ပါ့မလား၊ ဦးလန်းနှင့် ဦးထွန်းလှိုင်ဆိုတဲ့ ဒကာကြီးတွေမှာ အပြစ်မရှိသဖြင့် အရေးယူရန်မသင့်ဘူး၊ တကယ်လုပ်သူကိုသာ အရေးယူအပြစ်ပေးသင့်တယ်ဟု ဘုန်းကြီးဦးနုကပြောသည်။ လက်သည်အစစ်ကိုသိလျှင် ထုတ်ဖော်မိန့်ကြားပါ၊ မပေါ်လျှင်တော့ ဦးလန်းနှင့်ဦးထွန်းလှိုင်တို့ကို အရေးယူအပြစ်ပေးရပါမည်ဟု အရေးပိုင်ကလျှောက်ကြားသည်။

ကဲ ဒါဖြင့် လက်သည်အစစ်ဆိုတာ ကျုပ်ပဲဟု ဘုန်းကြီးဦးနုက ရဲရင့်တင်းမာစွာ ပြန်ပြောသည်။ ၎င်း၏ပြောကြားချက်ကြောင့် ဆရာတော်ဦးဥေယျနှင့်တကွ အားလုံးအံ့အားသင့်သွားကြသည်။ ဆရာတော်ဦးဥေယျမှာ ဒေါသကို မထိန်းချုပ်နိုင်တော့သဖြင့် ကိုယ်တော်ဘယ့်နှယ်လုပ်တာလဲ၊ ဘယ်သူမှမပြောဘဲ ဘာဖြစ်လို့ မီးသင်္ဂြိုဟ်ပစ်ရသလဲဟုမေးသည်။

ငါ ပျံတော်မူလို့ ၇ ရက်ပြည့်လျှင် မီးသင်္ဂြိုဟ်၊ ဘယ်သူ့ကိုမှ မတိုင်ပင်နှင့် မင်းတစ်ဦးတည်းလုပ်ဟု ဆရာတော်ဘုရားကြီးကမှာကြားခဲ့၍ လုပ်လိုက်ရတာပဲ၊ ၇ ရက်ပြည့်တဲ့ နေ့ကတည်းက လုပ်မလို့ ကြံစည်သေးတယ်၊ မအောင်မြင်တာနဲ့ နောက်မှ လုပ်ရတာပဲဟု ဘုန်းကြီးဦးနုက ဖြေကြားသည်။

မီးသင်္ဂြိုဟ်ရာတွင် ကိုယ်တော်နှင့်အတူ မည်သူတွေပါသေးသလဲဟု အရေးပိုင်က လျှောက်ကြားမေးမြန်းရာ ဘယ်သူမှမပါဘူး၊ မိမိတစ်ဦးတည်း သမ္မာဒေဝနတ်များအကူအညီနှင့် လုပ်လိုက်တာပဲဟုဖြေသည်။ ကိုယ်တော်ဘယ်လိုလုပ်သလဲ လုပ်တဲ့အချိန်က ဘာဖြစ်သလဲဟု ထပ်မံလျှောက်ကြားမေးမြန်းရာ ကျေးဇူးရှင်ဆရာတော်ဘုရားကြီး အလိုဆန္ဒတိုင်းပြည့်ဝစေရန် ဆုတောင်းပြီး ဂူတံခါးတည့်တည့်မှ ပိတ်ထားသော အင်္ဂတေအုတ်ကို တူရွင်းဖြင့်ထိုးလိုက်သည်။ သို့ထိုးလိုက်သည်နှင့် တစ်ပြိုင်နက် မြေလျှင်လှုပ်၍ အုတ်များပြိုကျတံခါးပွင့်သွားသည်။

ထိုစဉ် နေ့ခင်းက မီးသင်္ဂြိုဟ်ရန် ဂူဘေးတွင် ပုံထားသော နံ့သာထင်းများဖြင့် ပလ္လင်ပေါ်မှာပင် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်ကို မီးသင်္ဂြိုဟ်ခြင်းအမှုကို ပြုလုပ်ပါသည်။ မီးတင်ချိန်တွင် မြေလျှင်တစ်ကြိမ်၊ ပြာကျချိန်တွင် မြေလျှင်



တစ်ကြိမ် သုံးကြိမ်တိုင်လှူပ်ပါသည်။ ဒီကိစ္စကို ထုတ်ဖော်မပြောရသေးလို့ ဘုန်းကြီး အခြားသို့မသွားသေးခြင်းဖြစ်သည်။ ယခုလက်သည်ပေါ်ပြီဖြစ်၍ ဘုန်းကြီးကိုပဲပေးပါ ဟု ဘုန်းကြီးဦးနုကပြောကြားသည်။

ထိုအခါတွင် ၎င်းအား အပြစ်မပေးလိုကြောင်း ပြောကြားသည်နှင့် တစ်ပြိုင်နက် သင်္ကန်း ၃ ထည်နှင့် သပိတ်တစ်လုံးကိုလွယ်ပြီး ကြွသွားတော်မူသည်မှာ ယခုတိုင် ဘယ်နေရာဘယ်ဌာနသို့ ရောက်ရှိနေကြောင်းကိုမသိဟု ဆရာတော်ဦးဥေယျက ရှင်းပြတော်မူ၏။

ကျားကူးဆရာတော်ကြီး၏ မိန့်ကြားချက်မှာ ဘုန်းကြီး ဦးနုသည် ပျဉ်းမနားမှ ရေစကြိုသို့ထွက်လာပြီး ရေစကြိုနယ်တွင် လှည့်လည်သီတင်းသုံးနေကြောင်း၊ ဂျပန်လက်ထက်တွင် ရေစကြိုတောရကျောင်း၌ ပျံလွန်တော်မူကြောင်း၊ ၎င်းပျံလွန်တော်မမူမီ အထက်ပါအကြောင်းကို မိမိအားပြောကြားသဖြင့် မှတ်သားထားကြောင်း အမိန့်ရှိလေသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင်ကျော်များသမိုင်း ၁၉၆၇ ခု၊ ဩဂုတ်လ၊ စာ ၂၄၁ - ၂၄၈၊ မိုးကြိုးသတင်းစာ၊ ၁၃၂၆ ခု၊ ကဆုန် လဆန်း ၁၅ ရက်၊ )

## လယ်တီဆရာတော်ကြီးငယ်စဉ်အခါက သာသနာရေးကြိုးပမ်းအားထုတ်မှုများ

လယ်တီဆရာတော်ဘုရားဟူ၍ ဟိုးဟိုးကျော်စောတော်မူသောအခါ ပစ္စေကဗုဒ္ဓလောက်နီးနီး တန်ခိုးကြီးသည်ဟူ၍ပင် ကြည်ညိုစွာတင်စားကြပါသည်။ ဤသို့ဆိုလျှင် ထိုသို့မဖြစ်မီ ငယ်စဉ်ကာလ၏ ကြိုးပမ်းမှုတို့ကိုလေ့လာသင့်ပါသည်။

ရွှေစည်းခုံဘုရား၏ ပတ်ဝန်းကျင်ရှိ အချို့နက်ရှိုင်းသောနေရာများမှာ လူတစ်ရပ်လက်ခုပ် တစ်ဖောင်မကဟု အမိန့်တော်ရှိသည်။ ဤနေရာများကို နေ့ရှည်ရက်များ ညီအောင်ဖို့ရသည်။ အချို့သံဃာတော်များက ဆရာတော်ဘုရားခပ်ထားသော ရေများကို မချိုးမသုံးဝံ့မည်စိုး၍ ၃ နာရီ ၄ နာရီ သံဃာတော်များ မထမီ မသိရအောင် စောစောထ၍ ကျောက်ခွက်ကြီးတွေ အပြည့်ခပ်ထားတော်မူသည်ဟု အမိန့်ရှိဖူးလေသည်။

(ကျမ်းကိုး၊ လယ်တီ ဦးဝဏ္ဏိတ နယ်လှည့်ဓမ္မကထိက၊ နိုင်ငံခြား ဗုဒ္ဓသာသနာပြု အသင်းကြီး၏ ဒုတိယဥက္ကဋ္ဌ၊ လယ်တီစံကျောင်း၊ မန္တလေးမြို့၊ ၁၂၈၈ ခု၊ တပို့တွဲလ၊ လယ်တီ မဟာထေရုပ္ပတ္တိကထာ၊ ဟံသာဝတီ ပုံနှိပ်တိုက်၊ စာမျက်နှာ ၂၈။)

**လယ်တီဆရာတော်သည် နှစ်ပေါင်း ၂၀ လုံးလုံး နံနက်တိုင်း နံနက်တိုင်း ၄ နာရီအချိန်ထ၍ တစ်တိုက်လုံး တံမြက်စည်းလှည်းသည်ဟူသော အချက်ကြီးကလည်းအံ့ဖွယ်ဖြစ်၏။**

ဤသို့ လယ်တီတိုက်ကြီးကို တည်ထောင်သည်မှစ၍ လယ်တီဘုန်းကြီး လယ်တီဘုန်းကြီး ဟူသော အမည်ဘွဲ့ထူးကိုရတော်မူ၏။ ကျောင်းတည် တိုက်တည် ကိုယ်တော်အဖြစ်သို့ ရောက်တော်မူ၏။ လယ်တီတိုက်သို့ ရောက်တော်မူသောအခါ နံနက်တိုင်း နံနက်တိုင်း ၄ နာရီအချိန်တွင် ထတော်မူ၍ တစ်တိုက်လုံးနှံ့အောင် တံမြက်လှည်းခြင်းဝတ်ကြီးကို ထူထောင်တော်မူ၏။ (အနှစ် ၂၀ တိုင်အောင် စွဲမြဲတော်မူ၏။)

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာမျက်နှာ ၃၁)



**လယ်တီဆရာတော်သည် နှစ်ပေါင်း ၂၀ လုံးလုံး သံဃာတော်များ အားလုံးချိုးရန် သုံးရန် ရေကို ခပ်တော်မူသည်ဟူသော ပါရမီတော်ကြီးကလည်း အံ့ဖွယ်ဖြစ်၏။**

သံဃာတော်များသုံးရန် ချိုးရန် ရေများခပ်ပြီးလျှင် လယ်တီရေတစ်အိုးကျစ်မြို့တွင်းရှိ ထေရ်ကြီး ဝါကြီး သက်တော်ကြီးတို့အား ဆွမ်းခံဝင်တိုင်း ကိုယ်တော်တိုင်ထမ်း၍ လှူဒါန်းမြဲဝတ်ကို ဆက်လက် ဆောင်ရွက်တော်မူ၏။ (ရေဝတ်ကြီး အနှစ် ၂၀ တိုင်အောင်စွဲမြဲတော်မူ၏)

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာမျက်နှာ ၃၁။)

**လယ်တီဆရာတော်သည် နှစ်ပေါင်း ၂၀ လုံးလုံး တစ်မြို့လုံး ဆွမ်းခံခြင်းဖြင့် စာသင်သား အပေါင်းတို့အား ဆွမ်းခံကျွေးခြင်းတည်းဟူသော ပါရမီတော်ကြီးကလည်း အံ့ဖွယ်ဖြစ်၏။**

ရေလှူဒါန်းပြီးလျှင် တစ်မြို့လုံးနှံ့အောင် ဆွမ်းခံခြင်းဖြင့် ရှေးကရှိပြီး ဆွမ်းခံဝတ်ကြီးကို မပျက်မကွက် ဆက်လက်၍ စာသင်သံဃာခြောက်ဆယ် ခုနစ်ဆယ်ကျော်တို့အား လုပ်ကျွေးပြုစုတော်မူ။ (ဆွမ်းခံဝတ်ကြီးအနှစ် ၂၀ တိုင်အောင်စွဲမြဲတော်မူ၏။)

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာမျက်နှာ ၃၁)

**လယ်တီဆရာတော်သည် နှစ်ပေါင်း ၂၀ လုံးလုံး ဆွမ်းခွက်ပန်းကန်တို့ကို ကိုယ်တိုင် ဆေးတော်မူသည်ဟူသော ပါရမီတော်ကြီးကလည်းအံ့ဖွယ်ဖြစ်၏။**

ရံဖန် ရံခါ ဆွမ်းစားကျောင်းသို့တက်၍ သံဃာတော်များ ဆွမ်းကိစ္စပြီးသောအခါ ပန်းကန်ခွက်ယောက်တို့ကို ကိုယ်တော်တိုင် ဆေးကြောတော်မူ၏။ သံဃာ့ကိစ္စ၊ သံဃာ့အမှု၊ သံဃာဝန်၊ သံဃာကျွန်များ ကျေပွန်အောင် ထမ်းဆောင်ရခြင်းသည် လွန်စွာမွန်မြတ်လှသော လုပ်ငန်းကြီးတစ်ခုဟု မကြာမကြာမိန့်မြွက်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာမျက်နှာ ၃၂။)

ထို့ကြောင့်လည်း နောင်သောအခါ မဟာလယ်တီဆရာတော်ဘုရားကြီးဟူ၍ ကမ္ဘာမဆုံးကျော် ကြားတော်မူကြောင်း လေ့လာမှတ်ယူနိုင်ပါသည်။

လယ်တီဆရာတော်ဘုရားကြီး၏ ပညာပါရမီတော်ကို သိသာရန် ရထားပေါ်တွင်ပင် အပြီး ရေးတော်မူသော ပဋိစ္စသမုပ္ပါဒ် ပို့ လက်ာ ၁၃ ပုဒ်ကို ကြည့်ခြင်းအားဖြင့် သိသာနိုင်ပါသည်။

၁၈၉၆ အေဒီ ၁၈၉၆ ခု၊ ဇန်နဝါရီ ၃၁ ရက်၊ သောကြာနေ့ (သက္ကရာဇ် ၁၂၅၇ ခု တပို့တွဲလပြည့်ကျော် ၃ရက်နေ့) မဟာဗောဓိသို့ ဖူးမြော်သွားရာ မန္တလေးမြို့မှ ရန်ကုန်မြို့သို့အထွက် မီးရထားထက်တွင် "ဗောဓိရတနာ၊ ယာဉ်စကြာဖြင့် သစ္စာလေးရပ်၊ လေးကျွန်းပတ်သား၊ နတ်ဝိသုဒ္ဓိ၊ တုမရှိသား၊ တြိဒ္ဒါရ၊ ရှိဦးခလျက်၊ ဘဝသုံးပါး၊ ဟုန်းဟုန်းသွားသည်၊ ရထားသံသရာ၊ ယာဉ်စကြာ၏၊ ခြင်းရာ ထုပ္ပတ်၊ သမုပ္ပါဒ်ကို၊ အတတ်သိရန်၊ နိဒါန်းပြန်ပိမ့်၊ အမှန်လေးချက်၊ သဘော နက်ကို၊ ဖုံးဝှက်ကွယ်ကာ၊ အဝိဇ္ဇာဟု၊ မဟာတမ၊ မှောင်ကြီးကျလျက်" အစချီသော ပဋိစ္စသမုပ္ပါဒ်ပို့ လက်ာ ၁၃ ပုဒ်ကို စီရင်ရေးသားလာရာ ရန်ကုန်မြို့သို့ ဆိုက်လျှင် လက်ာပြီးစီး၏။

သင်္ဘောသို့တက်စီး၍ဘင်္ဂလားမြို့သို့ ကူးရာ၊ လေးညဉ့်ငါးရက်ပတ်လုံး ကမ်းမမြင်သော ပင်လယ်အပြင်မှာ ရေးသားသော ဂုဏ်းလက်ာ ၁၃ ပုဒ်အဖြေ၊ ဘင်္ဂလားမြို့မှ



မဟာဗောဓိနှင့်တကွ ကုသိနာရုံ ဗာရာဏသီစသော တိုင်းကြီးပြည်ကြီးများကို လှည့်ပတ်ရာ လမ်းစဉ်တစ်လျှောက်မှာ ရေးသားသောအဖြေ၊ ၎င်းအဖြေတို့ကို စုပေါင်း၍ ပဋိစ္စသမုပ္ပါဒ်ဒီပနီ အမည်ဖြင့် စာအုပ်ထွက်ပေါ်လျက်ရှိလေပြီ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၉။)

၁၈၉၅ **လယ်တီဆရာတော်ဘုရားကြီးသည် ကုန်းသတ္တဝါတို့၏အသားကို စားခြင်းမှ အေဒီ ၁၈၉၅ ကတည်းက လှူဒါန်းတော်မူခဲ့ကြောင်း လေ့လာတွေ့ရှိရပါသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၉။)

၁၈၉၅ မဟာဗောဓိသို့ ရောက်၍ ဖူးမြော်ပူဇော်ရာ မြတ်စွာဘုရား၏ ဂုဏ်တော်တွေ တဖွားဖွား ပေါ်ပေါက်လာ၏။ ထိုအခါ မြတ်စွာဘုရား၏ ကိုယ်စားပြု၍ သတ္တဝါများကို ဆင်းရဲဒုက္ခမှ ကယ်တင်လိုသောစိတ်ဖြစ်ပေါ်လာ၏။ ဤကဲ့သို့ ဖြစ်ပေါ်လာသည့်အတိုင်း **ကယ်တင်နိုင်ရပါစေသောဟု ဆုတောင်းပတ္ထနာပြုလျက် အလွန်ကြည်ညိုသော စိတ်ဖြင့် ကုန်းသတ္တဝါတို့၏ အသားများကို မဟာဗောဓိအား လှူတော်မူ၏။ (ဤကား ကုန်းသတ္တဝါအသားကို လှူတော်မူပုံတည်း။)** ထိုနှစ်သည် အေဒီ ၁၈၉၅ (သက္ကရာဇ် ၁၂၅၇ ခုနှစ် ဖြစ်ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာမျက်နှာ ၃၉။)

လယ်တီဆရာတော်ဘုရားကြီးသည် မဟာဗောဓိပင်မှအပြန်တွင် ရှေးကကြံရွယ်ရင်း ရှိသည့်အတိုင်း တောကျင့် တောင်ကျင့် ကျင့်တော်မူခဲ့ကြောင်းသိရှိရပါသည်။

၁၈၉၅ မဟာဗောဓိမှအပြန် အေဒီ ၁၈၉၅ (၁၂၅၇ ခုနှစ်) တန်ခူးလဆန်း ၈ ရက်နေ့ ဟံသာဝတီနယ်ဒလမြို့ တောတန်းကြီး ဆပဂံတောရကျောင်းတွင် သီတင်းသုံးတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာမျက်နှာ ၄၀။)

လယ်တီဆရာတော်ဘုရားကြီးသည် ရန်ကုန်တစ်ဖက်ကမ်း ဒလ တောကြီးတန်းတွင် အောင်မြေအဖြစ် ကျင့်ကြံအားထုတ်ခဲ့ကြောင်း သိရပါသည်။

၎င်း ဒလ တောကြီးတန်း ဆပဂံ တောကျောင်း၌ပင် အာနာပါနကမ္မဋ္ဌာန်း လုပ်ငန်းကြီးကိုလည်း ဆက်လက်ထူထောင်တော်မူပြန်၏။

(ကျမ်းကိုး၊ (၁) လယ်တီ ဦးလှပိုင်၊ စာ ၁၀၄၊ (၂) လယ်တီ ဦးဝဏ္ဏိတ၊ စာ ၄၀ )

လယ်တီဆရာတော်ဘုရားကြီးသည် မုံရွာမြို့တွင် အတောင် ၆၀ စကြံန်ကျောင်းကြီး ပေါ်ပေါက်လာသောအခါ ထိုကျောင်းကြီးမှာပင် ထူးခြားသောကျမ်းဂန်များကို ပြုစုခဲ့ပါသည်။

၁၈၉၆ အေဒီ ၁၈၉၆ ခု၊ မတ်လ (သက္ကရာဇ် ၁၂၅၈ ခု တပေါင်းလ)တွင် ဒလ တောကြီးတန်းမှ ပြန်ကြွလာတော်မူသည်။

၁၈၉၇-၉၈ အေဒီ ၁၈၉၇-၁၈၉၈ (၁၂၅၉ ခု နှစ်ဝါ ၁၂၆၀ ပြည့်နှစ်)ဝါတို့၌ မုံရွာမြို့ လယ်တီတိုက်ကြီးအတွင်း အတောင်ခြောက်ဆယ်ရှိသော စကြံန်ကျောင်းကြီး၌ ဝါကပ်နေထိုင်တော်မူ၏။ ထိုစဉ်အခါ လက္ခဏဒီပနီ၊ ပုဗ္ဗောဝါဒ ကမ္မဋ္ဌာန်း၊ ဝိဇ္ဇာမဂ္ဂဒီပနီ ကျမ်းများကို ရေးသားတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၁။)



လယ်တီဆရာတော်ဘုရားကြီးသည် တပည့်သာဝကများ၏ တောင်းဆိုချက်အရ သာသနာရေး လုပ်ငန်းများကို မနားမနေကြိုးပမ်းဆောင်ရွက်ခဲ့ပါသည်။ လယ်တီတောရကျောင်းမှ ကျိုက်ထို သေက္ခုတောင်အထိ ရေကြောင်းတစ်လှည့် ကုန်းကြောင်းတစ်လှည့် အပင်ပန်းခံကာ ကြွတော်မူခဲ့သော ပါရမီတော်လည်းလေ့လာသင့်ပါသည်။

၁၈၉၈ အေဒီ ၁၈၉၈ ခု၊ အောက်တိုဘာလ (၁၂၆၀ ပြည့်နှစ် သီတင်းဝါလကျွတ်)၌ တန်ဆောင်မုန်းလ ကျိုက်ထိုမြို့ သေက္ခုတောင် တပည့်ဦးတိလောက ပင့်လျှောက်ချက် အရကြွလာတော်မူ၍ သေက္ခုတောင်တွင် သီတင်းသုံးတော်မူရာ တစ်လခန့် ကြာတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၂)

လယ်တီဆရာတော်ဘုရားကြီးသည် တရားထူးတရားမြတ်များကို အဆိုပါ ကျိုက်ထို သေက္ခုတောင်တွင်ပင် ရယူခဲ့ကြောင်းထူးခြားစွာတွေ့ရှိရပါသည်။

ထိုသေက္ခုတောင်တွင် တရားအားထုတ်တော်မူခိုက် ထူးခြားသော အချက်ကြီး တစ်ခုသည်ကား ညနေစောင်း ၄ နာရီခန့် အချိန်တွင် ကပ္ပိယ ဒါယကာ မောင်စမုံသည် အဖျော်ရည်ကပ်ရန် ဆရာတော်ဘုရားကြီး ကမ္မဋ္ဌာန်းအားထုတ်သော သစ်ခက်သင်္ခမ်း ကမ္မဋ္ဌာန်းကျောင်းတို့လာရာ ဝါးတစ်ရိုက်ခန့် အနီးသို့ရောက်၍ ဆရာတော်ဘုရား ကြီးအား လှမ်းကြည့်လိုက်ရာ မြေပေါ်မှနှစ်တောင်ခန့်အကွာ ကောင်းကင်တွင် တင်ပျဉ်ခွေလျက် မျက်လွှာချကာ သီတင်းသုံးနေသည်ကို တွေ့မြင်၍ အံ့အားသင့်ကာ ဖျော်ရည်ခွက်ကိုင်ပြီး ရှေ့သို့မတိုးဝံ့ဘဲ နောက်သို့ဆုတ်ပြီး ဦးနန္ဒမာလာ၊ ဦးဝိသုဒ္ဓ၊ ဦးဇဝန၊ ဦးသောဘဏ၊ ဦးသုန္ဒရတို့အား အကြောင်းကို လျှောက်ထားရာ ထိုတပည့်ကြီး များလည်း မနီးမဝေးက တစေ့တစောင်း ချောင်းမြောင်းကြည့်ရှုကြပြန်၏။ ကပ္ပိယ ဒါယကာပြောတိုင်း မှန်ကန်စွာတွေ့မြင်ကြ၍ သေက္ခုတောင်ဆရာတော် ဦးတိလောက အားလျှောက်ကြပြန်၏။

တပည့်တို့ သင်တပည့်တို့အား ငါဆရာနှုတ်ပိတ်စကားပြောကြားအံ့၊ ကောင်း စွာနာယူကြရမည်၊ ကျေးဇူးရှင်ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိနေသမျှ ကာလပတ်လုံး ယခုသင်တပည့်တို့ ထင်ရှားစွာတွေ့မြင်ရသောအတိုင်း သင်တပည့်တို့မှ တစ်ပါး တစ်ခြားမည်သူတစ်ဦးတစ်ယောက်ကိုမျှ မပြောကြားကြရဟု ငါဆရာကျပ် တည်းစွာ နှုတ်ပိတ်စကားပြောကြား၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၂)

လယ်တီဆရာတော်ဘုရားကြီးသည် ဘီးလင်းမြို့နယ်ရှိ ကုသိနာရုံ ဆံတော်ရှင်စေတီတော်သို့ ရောက်သောအခါ ၂ ရက်မျှ သီတင်းသုံးနေထိုင်ပြီးနောက် ထိုကုသိနာရုံရှိ ရသေ့ဆရာ၏ လျှောက်ထား ချက်ကြောင့် ဝိဇ္ဇာမဂ္ဂဒီပနီကို ရေးတော်မူကြောင်းတွေ့ရှိရပါသည်။

၁၈၉၈ အေဒီ ၁၈၉၈ ခု၊ နိုဝင်ဘာ ၁၆ / ၁၇ ရက်၊ ဗုဒ္ဓဟူး၊ ကြာသပတေးနေ့ (၁၂၆၀ ပြည့်နှစ် နတ်တော် လဆန်း ၄ ရက် ၅ ရက်)တွင် ကျိုက်ထိုသေက္ခုတောင်မှ ဘီးလင်းမြို့ ကုသိနာရုံဘုရားကို အဖူးအမြော်ရောက်သောအခါ ၎င်းတောင်ပေါ်ဘုရားမှာနေသော ရသေ့ဆရာနှင့်တွေ့ကြသည်။ သက္ကာယဒိဋ္ဌိဟု ဆိုအပ်သော အတ္တဝါဒုပါဒါန် ဖြုတ်ဖျက်ရ သောနည်းလမ်းကို ရသေ့ဆရာလျှောက်ထားချက်နှင့် ဝိဇ္ဇာမဂ္ဂဒီပနီကျမ်းကို ရေးသား တော်မူသည်။



၁၈၉၈ ၎င်းနှစ် အေဒီ ၁၈၉၈ ခု၊ ဒီဇင်ဘာလ ၂၃ ရက်၊ သောကြာနေ့ (၁၂၆၀ ခုနှစ်၊ ပြာသိုလဆန်း ၁၂ ရက်နေ့)တွင် အပြီးသို့ရောက်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၂ - ၄၃)

လယ်တီဆရာတော်ဘုရားကြီးသည် မဟာမြိုင်တောကြီးတွင်လည်း အားထုတ် အောင်မြင်ခဲ့ကြောင်းသိရှိရပါသည်။ ၎င်းပြင် ထူးထူးခြားခြား ကျင့်ကြံခဲ့ပုံများမှာ မှတ်သားလောက်ပါသည်။ တစ်ညလုံး မအိပ်ဘဲ ကျောက်နံရံကိုမှီ၍ ကျင့်ကြံအားထုတ်ခဲ့သည်မှာလည်း ထူးခြားသောပါရမီတော် ဖြည့်ဆည်းခြင်းဖြစ်ကြောင်း မှတ်သားရပါသည်။

၁၉၀၀ အေဒီ ၁၉၀၀ ပြည့် (သက္ကရာဇ် ၁၂၆၂ ခုနှစ်)တွင် မဟာမြိုင်တောကြီး၌ ဝါကပ်နေထိုင်တော်မူ၏။ ထိုမဟာမြိုင်တောကြီးသည် ဒီပဲယင်းမြို့၏ မြောက်စွန်းမှစ၍ ဟိမဝန္တာတောင် အရှေ့စွန်းနှင့် ကပ်လျက်တည်၏။

ထိုမဟာမြိုင်တောကြီး၌ ထိနမိဒ္ဓကို နိုင်နင်းအောင် အားထုတ်တော်မူပုံမှာ တစ်ညဥ့်လုံးအိပ်မူ ဣရိယာပုတ်ကြီးဖြင့် အချိန်ဖြုန်းခြင်းသည် ကိုယ့်ကျိုး ကိုယ်စီးပွားမဖြစ်၍ နစ်နာလှ၏။

**ငါသည် ဤသည်အိပ်မှု ဣရိယာပုတ်ကြီးကို နိုင်နင်းအောင် ဖျက်ဆီး၍ ပစ်အံ့ဟု တစ်ညဥ့်လုံးမအိပ်ဘဲ မိုးလင်း၍ ကုလားတက်ကြီးခေါက်မှ နံရံကိုမှီ၍ မတ်ရပ်ဖြင့် အတန်ငယ် မှီကာမျှသော အိပ်ခြင်းဖြင့် အိပ်ပြီးလျှင် ဆွမ်းခံတော်မူသည်။**

**ဤကဲ့သို့ချည်း နေ့ရောညဥ့်ရော မအိပ်ဘဲ တစ်ဝါတွင်းပတ်လုံး အပင်အပန်းခံ၍ အားထုတ်တော်မူသည်။**

ဝါကျွတ်ပြီးသည့်နောက် မိုးနှင့်ဆောင်း အကူးအပြောင်းတွင် ဥတုဖောက်ပြန်သည့်အတွက် နှာစေးချောင်းဆိုးဝေဒနာဖြစ်ပေါ်လာ၏။ ထိုအခါမှ အန္တရာယ်ကို စောင့်ရှောက်သောအားဖြင့် အချိန်အနည်းငယ်ကြာအောင် လှဲ၍အိပ်တော်မူ၏။

(ကျမ်းကိုး၊ လယ်တီ ဦးဝဏ္ဏိတ နယ်လှည့်ဓမ္မကထိက၊ နိုင်ငံခြား ဗုဒ္ဓသာသနာပြု ဒုတိယလယ်တီ စံကျောင်း မန္တလေးမြို့၊ ၁၂၈၈ခု၊ တပို့တွဲလ လယ်တီ မဟာထေရုပ္ပတ္တိကထာ၊ ဟံသာဝတီပုံနှိပ်တိုက်၊ စာ ၄၄)

လယ်တီဆရာတော်ဘုရားကြီးသည် အလုံအနောက်ဘက်ရှိ ရွှေတောင်ဦးကျောက်ဂူတွင် ကျင့်ကြံအားထုတ်ခဲ့သော ကာလများဖြစ်ခဲ့ပါသည်။

၁၉၀၀-၀၁ အေဒီ ၁၉၀၀-၁၉၀၁ ( သက္ကရာဇ် ၁၂၆၂ ခုနှစ် ၊ ၁၂၆၃ ခုနှစ် ) များ၌ အလုံမြို့၏ အနောက် သလ္လာဝတီမြစ်၏ အနောက်ဘက်ကမ်းနဖူးတွင် တည်ရှိသော ရွှေတောင်ဦးတောင် ကျောက်ဂူ၌ ဝါကပ်နေထိုင်တော်မူပြီးလျှင် အာဟာရဒီပနီ အနတ္တဒီပနီကျမ်းတို့ကိုပြုစုတော်မူ၏။ ထိုတောင်၌နေတော်မူစဉ် သလ္လဟုကဝုတ္တိ၊ သန္ဓိဋီဂုဏ်တို့နှင့် အထူးပြည့်စုံစွာ နေထိုင်အားထုတ်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၄။)

လယ်တီဆရာတော်ဘုရားကြီးသည် ရွှေတောင်ဦးတောင်တော်တွင် အားထုတ်စဉ်ကာလ အဝတ်ဖြူ ဝတ်သော ပုဂ္ဂိုလ်ထူးတစ်ပါးနှင့် ဆုံစည်းခဲ့ရပုံအကြောင်းကိုလည်းကောင်း၊ ထိုပုဂ္ဂိုလ်ထူး၏

စောင့်ရှောက်မှုကို ခံယူခဲ့ရကြောင်းကိုလည်းလေ့လာတွေ့ရှိရပါသည်။



ရွှေတောင်ဦးတောင်၌ သီတင်းသုံးတော်မူစဉ် အံ့ဩဖွယ်ကောင်းသော အချက်ကြီးကား ၎င်းတောင်ကျောက်ဂူထဲတွင် ၄ လ ၅ လမျှ တစ်ပါးတည်း နေတော်မူလျက် ပဓာနအလုပ်ကို အားထုတ်တော်မူစဉ် အဖျားရောဂါကြီးနှိပ်စက်၍ လာ၏။

**ဆရာတော်ဘုရားကြီးလည်း စွဲကပ်နေသော ဝေဒနာကို လူမှန်းမသိ တစ်ချက်သိတစ်ချက်နှင့် သည်းခံတော်မူရသည်။ ထိုအခါကျောက်ဂူ၏ တစ်ခုသော ထောင့်ကွေ့တွင် ကျောက်ဆင်းတုနှင့်တူသော အလွန်ဖြူစင်သော အဝတ်ကိုဝတ်လျက် နတ်လားလူသားမသိသူတစ်ယောက်ထိုင်၍ ဆရာတော်ကြီးအားစောင့်ရှောက်နေ၏။ ဆရာတော်ကြီးလည်း ဒုက္ခဝေဒနာကို ခံစားနေရသည့်အတွက် ၎င်းလူဖြူကို မေးခြင်းခေါ်ခြင်း မပြုမလုပ်နိုင်ဘဲ တစ်ညဥ့်လုံး ထိုလူဖြူနှင့်သာနေတော်မူ၏။**

နံနက်လင်း၍ ဆွမ်းခံချိန်ရောက်သောအခါ ဆွမ်းခံရွာက ဒါယကာများလာ၍ အကြောင်းခြင်းရာကို မေးမြန်းပြီးလျှင် ရွာသို့ယူ၍ ကုသဖို့ရန် လျှောက်ထားကြကုန်၏။ ထိုလျှောက်ထားချက်ကို ပယ်တော်မူ၍ မုံရွာသို့ရောက်အောင် ပို့ကြပေတော့ဟု မိန့်တော်မူ၏။ ဒါယကာတို့သည်လည်း ထမ်းစင် ကုလားထိုင်နှင့် ထမ်း၍ ယူကြရာ ကုလားထိုင်ပေါ်သို့ ရောက်သည်နှင့်တစ်ပြိုင်နက် ပကတိလူမမာကဲ့သို့ ဖြစ်ပြီး သတိမေ့လျက် အိပ်ပျော်သွားရာ တောင်တစ်လုံး၊ ကုန်းကျင်း အဆင်းအတက်တွေကိုကျော်၍ သွားသော်လည်း မနိုးဘဲ သလ္လာဝတီမြစ် အရှေ့ဘက်သို့ကူး၍ အလုံမြို့ရွှေကျောင်း (ဦးဉာဏဝံသ)ဦးစံချိန်ကျောင်းသို့ရောက်အောင် ယူဆောင်ကြကုန်၏။ ဦးစံချိန် ကျောင်းသို့ရောက်၍ ကုလားထိုင်ကိုချသောအခါ သတိရ၍နိုးလာ၏။

ဤကဲ့သို့ ဖြစ်ရခြင်းသည် အကြောင်းဘယ်နည်းဟု လျှောက်ထားရာ ညဥ့်က ဂူထဲ၌ လူဖြူကလိုက်၍ စောင့်ရှောက်ဟန်တူသည်ဟုမိန့်တော်မူ၏။ ၎င်းနောက် မုံရွာသို့ ရောက်အောင်ယူဆောင်သွားကြ၏။ မုံရွာသို့ရောက်၍ ညဥ့်၌အိပ်မက်ကြီးစွာမြင် တော်မူ၏။

လယ်တီဆရာတော်ဘုရားကြီးသည် အိပ်မက်၏ သဘောသဘာဝကို သိရှိရအောင်လည်း မိမိ၏ အိပ်မက်များကိုလည်း မိမိကိုယ်တော်တိုင် အနက်အဓိပ္ပာယ် ဖွင့်ဆိုတော်မူခဲ့သဖြင့် နောင်သောအခါ ကျင့်ကြံအားထုတ်သူများအတွက် အထောက်အပံ့ ဖြစ်စေကြောင်း မှတ်သားရပါသည်။

၁။ မြင်းမိုရ်တောင်ကြီးကို အမှီ တံကဲပျဉ်ပြုပြီး ယုဂန္ဓိုရ်တောင်ပေါ်မှာ ထိုင်နေရသည်ဟု မြင်မက်ခြင်းတစ်ချက်။

၂။ ယုဂန္ဓိုရ်တောင်ပေါ်ကနေပြီး အလွန်ရွှင်လန်း စိမ်းစိုသော စကြဝဠာတစ်ခုလုံးအား ကြည့်ရှုရသည်ဟု မြင်မက်သည်တစ်ချက်။

၃။ ယုဂန္ဓိုရ်တောင်၏ အရှေ့တောင်ဘက် ဝင်းဝင်းထိန် အရောင်အမျိုးမျိုးတို့ဖြင့် ပြည့်လျက် နေသော ရတနာ လိုဏ်ဂူကြီးတစ်ခုကို မြင်ရသည်ဟု မြင်မက်သည်တစ်ချက်။

၄။ ၎င်းလိုဏ်ဂူထဲသို့ တောင့်ကသတ္တဝါ အမျိုးမျိုးတို့ ရွှင်လန်းဝမ်းမြောက်စွာ ဝင်ရောက် ခိုအောင်း၍နေသည်ဟု မြင်မက်သည်တစ်ချက်။



၅။ မီးအလျှံတွေထဲသို့နေသော ဂူလိုဏ်ကြီးထဲသို့ ဘာကြောင့်ဝင်ကြသလဲ၊ မပူကြဘူးလားဟု မေးသောအခါ ကိုယ်တော်၏ လိုဏ်ဂူထဲမှာနေရတာ အလွန်အေးမြချမ်းသာ၍ ပျော်လွန်းလို့ဝင်နေကြပါသည်ဟု ငှက်သတ္တဝါများက ပြောသည်ကိုမြင်မက်သည်တစ်ချက်။

၆။ မြင်းမိုရ်တောင်ကိုမှီနေရာ တစ်အောင့်လောက်ကြာသောအခါ ခန္ဓာကိုယ်ကြီး မြင်းမိုရ်တောင်ကြီးဖြစ်သွားသည်ဟု မြင်မက်သည်တစ်ချက်။

ဤခြောက်ချက်သော အိပ်မက်ကြီးတို့ကို မြင်မက်တော်မူသည်။ ဤအိပ်မက်၏အကျိုး ဘယ်လိုပါလဲဘုရားဟု လျှောက်ထားသောအခါ နိုင်ငံလှည့်ပြီး သာသနာပြုနိုင်ဖို့ရန် မြင်မက်သည်ဟု အမိန့်တော်ရှိတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၅-၄၆။)

လယ်တီဆရာတော်ဘုရားကြီးသည် သလ္လာဝတီမြစ်ကမ်းခြေတွင်လည်း ကျင့်ကြံအားထုတ်ခဲ့ပါသေးသည်။ ထိုနေရာရှိ လက်ပန်တောင်းတောင်သည် ဆရာတော်၏ အောင်မြေပင်ဖြစ်ပါသည်။ ထိုအချိန်အခါတွင် ပုဂ္ဂိုလ်ထူးတစ်ပါးနှင့် တွေ့ဆုံခဲ့ရပုံကိုမှတ်သားရပါသည်။

၁၉၀၄ အေဒီ ၁၉၀၄ (သက္ကရာဇ် ၁၂၆၅ ခုနှစ်)၌ လက်ပန်တောင်းတောင် အတောင်ခြောက်ဆယ်ရှိသော စကြံန်ကျောင်းကြီးတွင် ဝါကပ်နေထိုင်တော်မူ၏။ ၎င်းတောင်ပိုင်း၌ သမ္မာဒိဋ္ဌိဒီပနီ၊ စတုသစ္စဒီပနီ၊ ကမ္မဋ္ဌာနဒီပနီကျမ်းတို့ကို ပြုစုတော်မူ၏။ (လက်ပန်တောင်းတောင်သည် မုံရွာမြို့၏ အနောက် ၃ မိုင်ခန့် ကွာသော သလ္လာဝတီမြစ်ကမ်းနားတွင်တည်ရှိ၏။)

အဆိုပါတောင်ခြေ သလ္လာဝတီ မြစ်ကမ်းစပ်၌ နေ့သန့်စင်ရန် ယာယီဆောက်လုပ်ထားသော ကွပ်ပျစ်ကြမ်းစင်ပေါ်တွင် ညနေအေးအချိန် ရေကသိုဏ်း ကြည့်ရှုတော်မူပြီး၍ ခေတ္တာအနားယူစဉ် ညစ်ထေးဟောင်းနွမ်းသောအဝတ်နှင့် လူတစ်ယောက်သည် ဆရာတော်ဘုရားကြီး၏ ခြေတော်ရင်းသို့လာ၍ ရှိခိုးဝပ်ချပြီးလျှင် မိမိလွယ်အိတ်ထဲမှ တစ်စုံတစ်ခုထည့်ထားသောပုလင်းကိုထုတ်၍ ဆရာတော်ဘုရားသည် တစ်ကမ္ဘာလုံးအနှံ့အပြား သာသနာပြုမည့် ပုဂ္ဂိုလ်ဖြစ်ပါလိမ့်မည်။ ထိုအခါ အနာရောဂါကင်းရှင်း၍ ခန္ဓာကိုယ်တောင့်တင်းခိုင်မာမှသာ သာသနာပြုလုပ်ငန်းကြီးတွင်ကျယ်လာပါမည်။ သို့အတွက် ဆရာတော်အား ပြာများလှူလိုပါသည်ဘုရားဟု လျှောက်ကြားရာ ဆရာတော်ဘုရားကြီးသည် ဂရုမစိုက် အမှုမထားသလို မင့်ပြာက စားဖို့လယ်ပြာလားကွဲ့ဟု မိန့်တော်မူလိုက်သောအခါ ၎င်းလူသည် ဆရာတော်ဘုရားကြီးက ငါ့ကိုအထင်သေးအမြင်သေးနှင့် အလကားကောင် အချောင်သမားဟု မှတ်ထင်တော်မူပါတကားဟု မိမိအစွမ်းကိုပြလို၍ ရုတ်တရက် ဆရာတော်ဘုရားကြီး ရှေ့မျက်မှောက်တွင် တင်ပျဉ်ခွေပြီး သလ္လာဝတီမြစ်ရေပြင်သို့ ခုန်ချလိုက်ရာ ရေပြင်ပေါ်တွင် ဗူးတောင်းဘောလုံးများကဲ့သို့ မနစ်မမြုပ်ဘဲ ပေါလောပေါ်လျက် ထုံးစံအတိုင်း အောက်သို့ မစုန်ဆင်းဘဲ အထက်အညာသို့ တဖြည်းဖြည်း ဆန်တက်၍ မျက်စိတစ်ဆုံး ကြည့်ရင်းကြည့်ရင်းနှင့် ကွယ်ပျောက်သွားသောဟူ၏။

၎င်းအကြောင်းကို ဆရာတော် ဘုရားကြီးအား တပည့်ဦးပဏ္ဍိတနှင့်ဦးနာဂ ကပ္ပိယမောင်ရွှေအောင်တို့အား ဤလူထူးအကြောင်းကို မိန့်ကြားတော်မူရာ တပည့်များက သာမညပုဂ္ဂိုလ်ဟုတ်မည်မထင်။ နတ်သော်လည်းကောင်း၊ ဝိဇ္ဇာသော်လည်းကောင်း၊ ဇော်ဂျီသော်လည်းကောင်း၊ တန်ခိုးကြီးသောပုဂ္ဂိုလ်သော်လည်းကောင်း



ဖြစ်ပါလိမ့်မည်ဟု လျှောက်ကြားကြ၏။ (ဤကား ထူးခြားချက်တည်း။)

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၈-၄၉။)

လယ်တီဆရာတော်ဘုရားကြီးသည် ကင်းဝန်မင်းကြီးအိမ်တော်သို့ တရားဟော ကြွရောက်ခဲ့ပါသေးသည်၊ လယ်တီဆရာတော်ဘုရားသည် ရှေးအခါက ယောအတွင်းဝန်ဦးဖိုးလှိုင်၏ လမ်းညွှန်ချက်များကိုရယူခဲ့၍ စကားပြေအရေးအသားတွင် ထူးချွန်ပြောင်မြောက်ခဲ့ကြောင်း ကိုယ်တော်တိုင် ဖွင့်ဟဝန်ခံခဲ့ပါသည်။ ယခုတစ်ဖန်ကား ရွှေနန်းရှင်မင်းတရားမရှိသည့်နောက်ဝယ် ကင်းဝန်မင်းကြီးအား တရားထူး တရားမြတ်များ သွားရောက်ဟောကြားခြင်းသည် ဆရာတော်ဘုရားကြီး၏ အထူးမေတ္တာတော် ဖြစ်ကြောင်းလေ့လာတွေ့ရှိရပါသည်။

၁၉၀၄ အေဒီ ၁၉၀၄ခု၊ ဖေဖော်ဝါရီလ (သက္ကရာဇ် ၁၂၆၅ ခုနှစ်၊ တပေါင်းလ)တွင် မန္တလေးမြို့သို့ ကင်းဝန်မင်းကြီး၏ ပင့်လျှောက်ချက်ဖြင့် လက်ပန်တောင်းတောင်မှ ထွက်ကြွတော်မူပြီးလျှင် နန်းမြို့တော်အတွင်း ကင်းဝန်မင်းကြီး၏ အိမ်ဦး၌ တရားသဘင် ဆင်ယင်ကျင်းပတော်မူ၏။ ထိုကင်းဝန်မင်းကြီး၏ အိမ်ဦးတွင်ပင် အာနာပါန ဒီပနီကျမ်းကို ရေးသားတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၉။)

လယ်တီဆရာတော်ဘုရားကြီးသည် ပျဉ်းမနားရှိ အင်ကြင်းမြိုင်တောအုပ်တွင်လည်း တောကျင့် တောင်ကျင့်များ ကျင့်ကြံအားထုတ်ခဲ့ပါသေးသည်။

၁၉၀၄ အေဒီ ၁၉၀၄ ခု ဧပြီ / မေလ (သက္ကရာဇ် ၁၂၆၆ ခုနှစ် ကဆုန်လ)၌ ပျဉ်းမနားမြို့၏ မြောက်မျက်နှာအရပ်၌ တည်ရှိသော အင်ကြင်းမြိုင်အမည်ရှိသော တောအုပ်တွင် ဆောက်လုပ်အပ်သော အတောင်ခြောက်ဆယ်ရှိသော စကြံန်ကျောင်း၌ သီတင်းသုံး ဝါကပ်တော်မူ၏။ ၎င်းတောကျောင်း၌ သီတင်းသုံးတော်မူစဉ် ဘာဝနာဒီပနီကျမ်း ဗောဓိပက္ခိယ ဒီပနီကျမ်း၊ သဒ္ဒသံခိပ်ကျမ်းတို့ကို ရေးသားစီရင်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၀။)

လယ်တီဆရာတော်ဘုရားကြီးသည် ဝိပဿနာအသင်းများ စတင်တည်ထောင်ခဲ့ကြောင်း လေ့လာတွေ့ရှိရပါသည်။ ထိုအချိန်တွင် မိတ္ထီလာမြို့၌ မကြံ့စဖူးလောက်အောင် ကန်တော်ကြီးက ရေလျှံကြောင်း အံ့ဖွယ်လေ့လာတွေ့ရှိရပါသည်။

၁၉၀၅ အေဒီ ၁၉၀၅ခု၊ ဇူလိုင်/ ဩဂုတ်လ (သက္ကရာဇ် ၁၂၆၇ ခုနှစ် ဝါလ) အခါ မြင်းခြံမြို့ ရေကန်ကြီးအနီး၌ ဝါကပ်မှီတင်း သီတင်းသုံးတော်မူ၏။ ပရမတ္ထသံခိပ်အသင်း ပဋ္ဌိစ္စသမုပ္ပါဒ်အသင်း ဝိပဿနာအသင်းများ ထူထောင်တော်မူ၍ အဘိဓမ္မာ တရားတော်ကြီးများကို ဟောကြားတော်မူ၏။ မိတ္ထီလာမြို့ ရေလယ်ကျောင်းကြီးတွင် ပရမတ္ထသံခိပ် စာပြန်ပွဲကြီး ပြုလုပ်ရာ ၅ ညဥ့်တိုင်တိုင် အနန္တ ၅ ပါးတရားကြီးကို ဟောရာ ကြီးစွာသော ငလျင်တုန်လှုပ်ခြင်း မိတ္ထီလာကန်ကြီး ရေတိုးခြင်းဟူသော ထူးဆန်းအံ့သြဖွယ် အချက်ကြီး ၂ ခု ဖြစ်ပေါ်လာသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၂)

လယ်တီဆရာတော်ဘုရားကြီးသည် တရားဟောတော်မူသောအခါ တံခွန်တိုင်ကြီးသည် လှုပ်လှုပ်ရှားရှား ဖြစ်လာသည်ဟု ဆိုကြပါသည်။

ဘာ့ကြောင့် သိရပါသလဲဆိုလျှင် တရားနားပရိသတ်တို့အလယ်၌ တံခွန်တိုင်ကြီးတစ်ခု



ရှိ၏။ ၎င်းအနား၌နေသော လူတို့သည် တံခွန်တိုင်လဲသည် တံခွန်တိုင်လဲသည်ဟု အုတ်အုတ်ကျက်ကျက် တစ်ခဲနက်ကြီးဖြစ်၍ ကသောကမျောထပြေးကြသည်။ တရားနာပရိသတ်များ လှုပ်လှုပ်ရွရွ ဖြစ်၍အကြောင်းကို ရှာသောအခါ တံခွန်တိုင်မလဲ လျှောင်လှုပ်၍ ယိမ်းယိုင်နေရုံမျှသာဟု သိရလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၂)

လယ်တီဆရာတော်ဘုရားကြီး ဟောကြားတော်မူသော တရားတော်များကြောင့် ကန်တော်ကြီး ရေတိုးခြင်းဖြစ်သည်ဟူ၍ လယ်တီဆရာတော်ဘုရားကြီး၏ ပါရမီတော်ကို အုတ်အော်သောင်းတင်း ကြည်ညိုကြကြောင်းတွေ့ရပါသည်။

မိတ္ထီလာကန်တော်ကြီး ရေတိုးခြင်း အကြောင်းကား ဆွမ်းချက်သော ဒါယိကာမကြီး တစ်ယောက် နံနက်စောစော မိုးမလင်းမီ ရေခပ်သွားရာ ညဥ့်ဦးက ခင်းထားသော နင်းကြမ်းပျဉ်အထက် ရေတစ်တောင်လောက် တိုးနေသည့်အတွက် နင်းကြမ်းပျဉ်ကို ရွှေ့ထားရကြောင်းပြော၍ တစ်ဆင့်စကား တစ်ဆင့်ကြားကာ လူအများ ရေတိုး ကြောင်း သိရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၂။)

လယ်တီဆရာတော်ဘုရားကြီးသည် တရားဟောကြွတော်မူရာ မြေပြင်တစ်လျှောက် ရေပြင် တစ်လျှောက် အနှံ့အပြားဖြစ်ပေရာ ရန်ကုန်ပရိသတ်လည်းအသိဖြစ်ပေသည်။

၁၉၀၅ အေဒီ ၁၉၀၅ ခု၊ ဒီဇင်ဘာလ ၃ ရက်၊ တနင်္ဂနွေနေ့ (၁၂၆၇ ခုနှစ် နတ်တော်လဆန်း ၈ ရက်နေ့) တွင် နောက်ပါ သံဃာတော်များနှင့် ရန်ကုန်မြို့သို့ ကြွတော်မူ၍ ရွှေတိဂုံ စေတီတော်မြတ်ကြီး၏ ရင်ပြင်တော်၌ များစွာသော ရဟန်းပရိသတ် ရှင်ပရိသတ် လူပရိသတ်တို့အား တရားမိုးကြီး ရွာသွန်းဖြိုးတော်မူလေသတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၅၂)

လယ်တီဆရာတော်ဘုရားကြီးသည် တရားစည်ကြီး ရိုက်တီးသည်ဟူသော စကားနှင့်အညီ အမြို့မြို့အရွာရွာ တရားဟောတော်မူရာ ဧရာဝတီတိုင်းမင်းကြီးဖြစ်သော နိုင်ငံခြားသား မင်းကြီး ကိုယ်တိုင်ကပင် ဟင်္သာတမြို့ မိုးခေါင်သဖြင့်ပင့်ဖိတ်ရာ လယ်တီဆရာတော်ဘုရား၏ ဘုန်းတော်ကံတော် မေတ္တာတော်ကြောင့် မိုးကြီးဖြိုင်ဖြိုင်ရွာသွန်းကြောင်း ပြောစမှတ်ပြုကြပါသည်။ ထိုအချက်ကိုလည်း အံ့ဖွယ်တွေ့ရှိရပါသည်။

၁၈၉၈ အေဒီ ၁၈၉၈ ခု၊ (သက္ကရာဇ် ၁၂၆၀ ခုနှစ်)တွင် သီရိခေတ္တရာ မည်သော ပြည်မြို့ ဝိပဿနာကုန်း တောရ၌ ဝါကပ်ဆိုတော်မူ၏။ တိုက်ဆိုင်လာသော ထူးခြား ချက်ကြီးတစ်ခုမှာ ၎င်းနှစ်တော်သလင်းလ ဟင်္သာတနယ်တွင် နောက်မိုးကြီးပြတ်၍ နောက်မိုးကြီးခေါင်၍ လယ်သမားများ အခက်ကြုံတွေ့နေကြလေ၏။ အစိုးရ ရုံးတော် များ၌လည်း လယ်ပျက်လျှောက်လွှာများ ပလူပျံသလို တသဲသဲရောက်ရှိကြ၏။

ထိုအခါ ဧရာဝတီမင်းကြီး မက်ကဆွဲသည် ပုသိမ်မြို့မှ နယ်လှည့် ထွက်ခွာလာ ရာ ဟင်္သာတမြို့သို့ဆိုက်ရောက်လာ၏။ ဟင်္သာတနယ်တွင် နောက်မိုးကြီးပြတ်၍ နောက်မိုးကြီးခေါင်၍ အသိန်းမကထွက်မည့် စပါးပင်များ သေကြေပျက်စီးကြမည့် ကိန်းကြီးဆိုက်နေကြောင်းသိရှိလေ၏။ ထိုအခါ ဧရာဝတီမင်းကြီးက အရေးပိုင် နယ်ပိုင် မြို့ပိုင်မှစ၍ မြို့ရွာရှိ လူကြီးလူကောင်းအပေါင်းတို့အားဖိတ်ကြားပြီး ဟင်္သာတမြို့၌



လယ်တီဆရာတော်ကိုပင့်၍ တရားပွဲပြုလုပ်ရမည်ဟုအမိန့်ရှိ၏။

အချို့က တီးတိုးစကားပြောဆိုကြသည်မှာ လယ်တီဆရာတော်နှင့် မိုးခေါင်တာ ဘာဆိုင်သလဲ၊ သူ့သဘာဝ သူ့ဥတုနှင့်သူဖြစ်နေတာ လယ်တီဆရာတော်က ဘာတတ်နိုင်ဦးမှာလဲ၊ ပြဒါးတစ်လမ်းသံတစ်လမ်းဟုပြောဆိုကြ၏။ သို့သော် မင်းကြီးအမိန့်ကို မလွန်ဆန်နိုင်ကြ၍ အချို့အရာရှိကြီးများနှင့် လူကြီးများက ပြည်မြို့သွား၍ လယ်တီဆရာတော်ကိုပင့်ကြရသည်။ အချို့က တရားဟောမဏ္ဍပ်နှင့် စံကျောင်းသင်္ဘောဆိပ်မှ စံကျောင်းအထိ ရဲလောင်းသွယ်၍ ရာဇမတ်ကာ၊ သဲဖြူခင်း၊ ငှက်ပျောပင်စိုက်၊ ပိတ်မျက်နှာကြက် အဆန်းတကြယ် စီမံဆောင်လုပ်ကြရ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၅၅)

လယ်တီဆရာတော်ဘုရားကြီးသည် မိမိငယ်စဉ်ကတည်းက နှစ်ပေါင်း ၂၀ လုံးလုံး ပါရမီဖြည့်ခဲ့သော ရေကုသိုလ်တော်ကြီးကို အာရုံပြုကာ သတ္တဝါများ၏အသက်ကို ငဲ့ညှာသောအားဖြင့် မေတ္တာတော်ပွားများတော်မူသောအခါ မိုးခေါင်နေသော ဟင်္သာတတွင် မကြုံဖူးအောင် မိုးကြီးရွာချကြောင်းတွေ့ရှိရရာ ရဟန်းထူးရဟန်းမြတ်တို့၏ မေတ္တာတော်ကြောင့် သစ္စာတော်ကြောင့် မိုးရွာတော်မူကြောင်း မိုးရွာတော်မူနိုင်ကြောင်း မိုးရွာစေတော်မူကြောင်း လေ့လာသိရှိရပါသည်။

ပြည်မြို့ ဝိပဿနာကုန်းဆရာတော် ဘုရားကြီးအထံတော်သို့ ရောက်ကြ၍ ဟင်္သာတမြို့သို့ တရားဟောကြွတော်မူရန် လျှောက်ကြားကြရာ ဆရာတော်ဘုရားကြီးက မိန့်တော်မူသည်မှာ မင်းတို့အပင့်လာကြတာက ဝါတွင်းကြီးပါလားကွဲ့၊ ဝါများကျွတ်၍ ခြေခင်းလက်ခင်း သာယာသောအခါမှ တရားပွဲပြုလုပ်လျှင် မသင့်တော်ပေဘူးလားကွဲ့ဟု မိန့်တော်မူရာ မှန်လှပါဘုရား တရားပွဲဆိုသော်လဲ မိုးရွာဖို့က အရေးကြီးနေပါသည်ဘုရား ယခုနှစ် ဟင်္သာတနယ်မှ မိုးပြတ်မိုးခေါင်သဖြင့် လယ်သမားများ အခက်ကြုံနေကြပါသည်။ စပါးပင်များရေပြတ်၍ ပတ်ကြားတွေအက်ပြီး ခြောက်သွေ့ကုန်ပါပြီ။ နောက် တနင်္ဂနွေတစ်ပတ်မျှ ရေမတွေ့ကြရပါလျှင် အသိန်းမကသော စပါးများ ဆုတ်ယုတ်၍ လူတွေ ငတ်မွတ်ခေါင်းပါး အစားရှားခြင်း ဒုဗ္ဘိက္ခန္တရကပ်နှင့် တွေ့ကြုံကြရတော့မည်ပါဘုရား၊ ယခုအခါ ငါး ဖား ပုဇွန်များလဲ ရေပြတ်ငတ်မွတ်၍ သေကြေပျက်စီးကြပါပြီ၊ ဤအကြောင်းများကြောင့် ဧရာဝတီမင်းကြီးက လယ်တီဆရာတော်ကို မပါပါအောင်ပင့်ကြရမည်ဟု အမိန့်ရှိ၍ ယခုဆရာတော်၏ ရှေ့တော်မှောက်သို့ ရောက်ကြရပါသည်ဘုရားဟု ရှိခိုးလျှောက်ထားကြ၏။ ဆရာတော်ဘုရားကြီးကလည်း လူသတ္တဝါ တိရစ္ဆာန်သတ္တဝါတို့၏ ဆင်းရဲပင်ပန်း သေကြေပျက်စီးကြမည့် ဘေးဒုက္ခမှ လွတ်ကင်းချမ်းသာအောင် ကာကွယ်စောင့်ရှောက်လိုသောကြောင့် ထိုဟင်္သာတသားတို့ လျှောက်ထားချက်ကို ဝန်ခံတော်မူ၏။ ဆရာတော်ဘုရားကြီး၏ ဝန်ခံတော်မူချက်ကို ရရှိကြသော ဟင်္သာတမြို့သားတို့သည် မနက်ဖြန်ထွက်မည့် ဧရာဝတီစာပို့ မီးသင်္ဘောဖြင့် ခရီးလမ်းစီစဉ်ကြလေ၏။

ကျေးဇူးတော်ရှင် လယ်တီဆရာတော်ဘုရားကြီးက တပည့် မောင်ဝဏ္ဏိတအား တိုးတိုးတိတ်တိတ် မိန့်တော်မူသည်မှာ ရွှေစည်းခုံကျောင်းတိုက်မှစ၍ လယ်တီတိုက်သို့ ရောက်သည်တိုင်အောင် အနှစ် ၂၀ ရွှေစည်းခုံဘုရားကြီးနှင့် သက်တော်ကြီး ဝါတော်ကြီး သံဃာတော်များအား သောက်ရေသုံးဆောင်ရေ ချိုးရေတို့ကို လှူဒါန်းခဲ့တဲ့ ရေဝတ်ကြီး၏ အကြောင်းကို ဟင်္သာတမြို့သားတို့အား ထင်ရှားစွာပြရတော့မှာပဲ။



ရေလှူရတဲ့ဒါန ရေရှားပါးသောအခါ ရေမရှိသောအခါ၌ ရေကိုအလိုရှိ၍ တောင့်တလျှင် ချက်ချင်းရေရရှိသည်။ ကျမ်းဂန်အဆိုရှိသည့်အတိုင်း သည်တစ်ခါ အချက်ကောင်းပဲကွဲ့ဟု အမိန့်ရှိတော်မူ၏။

အဲဒီ ညဉ့်ကစပြီး အနှစ် ၂၀ ကျော် ရေဝတ်ကြီးကို အောက်မေ့၍ ဆင်ခြင်တော်မူခြင်း ငါးရံ့မင်း ပရိတ်တော်ကြီးကို ပုတီးစိပ်တော်မူခြင်း ပဋ္ဌာန်နတ်နှင့် အထက်ဝဋ္ဋာဟကနတ်တို့အား အထူးမေတ္တာပို့ခြင်း စသည်တို့ကို ပြုလုပ်တော်မူ၏။ နောက်တစ်နေ့တွင် မဟာထေရ်မြတ်ကြီးသည် နောက်ပါတပည့်ငါးပါး ခြံရံလျက် ဇရာဝတီမြစ်သင်္ဘောဖြင့်ကြွလာရာ ဟင်္သာတမြို့သို့ ဆိုက်ကပ်ခါနီးတွင် ကောင်းကင်တစ်ခုလုံး အခြေအနေ ရုတ်တရက် ပြောင်းလဲပြီး မိုးတိမ်တွေအုပ်ဖုံး ထစ်ချုန်း၍ သည်းထန်စွာရွာသွန်းချလိုက်ရာ တစ်နာရီခွဲမျှကြာလေသည်။

စာပို့ သင်္ဘောကြီးသည် ကမ်းသို့မကပ်နိုင်ဘဲ မြစ်လယ်ခေါင်တွင် ကျောက်ဆူးချ၍ ချာလပတ်လည်နေ၏။ မိုးစဲသွားသောအခါမှ သင်္ဘောကြီးသည် တဖြည်းဖြည်း ဆိပ်ကမ်းသို့ ဆိုက်သည်နှင့်တစ်ပြိုင်နက် အကြိုအဆိုသမားတို့သည် ထမ်းစင်နှင့် သင်္ဘောပေါ်သို့တက်၍ ဆရာတော်ဘုရားကြီး ရှေ့တော်မှောက်သို့ ဆိုက်ရောက်ကြကုန်၏။ ဆရာတော်ဘုရားကြီးက မိန့်တော်မူသည်မှာ "မင်းတို့က ဘာလုပ်ကြတာလဲကွဲ့" "မှန်လှပါ ဆရာတော်ဘုရားကြီးအား ကြိုဆိုရန် ထမ်းစင်ပါပါသည်"ဟု လျှောက်ကြရာ "ငါထမ်းစင် အလိုမရှိဘူးကွဲ့၊ ခြေလျင်သွားမယ်"ဟု အမိန့်တော်ရှိရာ "မှန်လှပါ မိုးကြီးစွာ ရွာသွန်းထား၍ မိုးရေနှင့် ရွှံ့ညွံတွေ ဗွက်ကြမ်းနေပါကြောင်း" လျှောက်ကြားကြရာ ဆရာတော်ဘုရားကြီးက "မင်းတို့ ဟင်္သာတမြို့မှာ မိုးခေါင်ရေရှားနေသည်ဟု ကြားရာ ယခုတော့ မိုးရွာရေပေါ်၍နေပြီမဟုတ်လားကွဲ့"ဟု မိန့်တော်မူပြီး ထမ်းစင်ကို မစီးဘဲ မြေပြင်ရေပြင်တွင် ခြေလျင်ကြွတော်မူ၏။

ကမ်းထိပ်ဂိုဒ်ရောက်သောအခါ ကမ်းလုံးညွတ်မျှ စောင့်ဆိုင်း ကြိုဆိုလျက်ရှိကြသော ပရိသတ်ထဲမှ ဇရာဝတီမင်းကြီးမက်ကဆွဲသည် ဆရာတော်ဘုရားကြီးအား အရိုအသေပေး၍ နှုတ်ခွန်းဆက်ကာ ဆရာတော်ဘုရားကြီး၏နောက်မှ လိုက်၍ စံကျောင်းတော်သို့ ပင့်ဆောင်သွားကြလေ၏။ (ဤကား အနှစ် ၂၀ကျော် ရေဝတ်ကြီးနှင့်စပ်လျဉ်း၍ ဟင်္သာတမြို့၌ နောက်မိုးကြီးသိမ်းသွားပုံကို ပြဆိုချက်ပေတည်း။)

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၅-၅၈။)

၁၈၉၈ အေဒီ ၁၈၉၈ ခု၊ ဒီဇင်ဘာလ (၁၂၆၀ ခုနှစ်၊ ပြာသိုလ) မန္တလေးမြို့သို့ ကြွတော်မူ၏။ ပဌမ မစိုးရိမ်ကျောင်းတိုက်မှစ၍ တရားပွဲကြီး ကျင်းပတော်မူ၏။ ၎င်းမှ လေးပြင်လေးရပ်အနှံ့အပြား တရားပွဲကြီး အံ့သြဘနန်း တခမ်းတနားကျယ်ပြန့်စွာ ပြုလုပ်ကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၇-၅၈။)

လယ်တီဆရာတော်ဘုရားကြီးသည် မြေနှင့်မထိဘဲ ဈာန်ဖြင့်ကြွတော်မူသည်ဟူသော သတင်းစကားမှာလည်း ရှေးကတည်းကပင် အထောက်အထားများ ရှာဖွေတွေ့ရှိရပါသည်။ ကိုယ်တွေ့မှတ်တမ်းများက ထိုအချက်ကိုသက်သေခံခဲ့ပါသည်။

အုတ်ဖိုမြို့ တရားဟောကြွတော်မူရာ အံ့သြဖွယ်အချက်ကြီးများကား ဆရာတော်ဘုရားကြီး ဆွမ်းခံကြွလာတော်မူသောအခါ မြေသို့ခြေမထိဘဲ တစ်ထွာလောက်



ကွာ၍သွားသည် ဈာန်ကြွသည်ဟု ဆွမ်းလောင်းပရိသတ်များ အုတ်အုတ်ကျက်ကျက် တခဲနက်ဖြစ်ခြင်း၊ ဆရာတော်ဘုရားကြီးကြွလာတော်မူပြီး တို့တတွေချမ်းသာပေတော့မည်ဟု နွားအချင်းချင်း စကားပြောကြသည်ဟု အုတ်အုတ်ကျက်ကျက်ဖြစ်ခြင်း။ ပိတ်မျက်နှာကြက်တို့ဖြင့် ဆန်းကြယ်စွာ ဆင်ယင်ထားသော ပိတ်မဏ္ဍပ်ကြီးတွင် တရားဟောတော်မူရာ မိုးပေါက်တွေကျလာ၏။ ၎င်းမိုးပေါက်တို့သည် ပိတ်ဖြူအပြင်၌ ပန်းပြောက်တွေ ဖြစ်၍နေသည်ဟု အုတ်အုတ်ကျက်ကျက်ဖြစ်ခြင်း။ တရားဟောတော်မူပြီး ပြန်ကြွသွားသောအခါ ရထားနှစ်စီးနှင့်လိုက်၍ပို့သည့်အနက် ခရီးတော်တော်ရောက်အောင် သွားမိသောအခါ ရထားတစ်စီးတိုးကာ ၃ စီး ဖြစ်၍နေသည်ဟု အုတ်အုတ်ကျက်ကျက်ဖြစ်ခြင်း ဤအချက်ကြီး ၄ ချက် ဖြစ်ပေါ်လာ၏။

၁၉၀၈ အေဒီ ၁၉၀၈ ခု၊ (၁၂၇၀ ပြည့်နှစ်)မော်လမြိုင်မြို့ ကျိုက်သန်လန်တောင်ထိပ် အောင်လံဘုရားအနီးတွင် မော်လမြိုင်မြို့သူမြို့သားတို့ ဆောက်လုပ်သော အောင်လံတိုင်ဝါဆိုကျောင်း၌ သီတင်းဝါကပ်ဆို နေထိုင်တော်မူစဉ်အခါ သုတ်ပါထေယျ ပါဠိတော် သိင်္ဂါလောဝါဒသုတ်၌ ဆရာဖြစ်သူတို့က တပည့်ဖြစ်သူတို့အား ပြုရာသောကျင့်ဝတ်တရားငါးပါးလာရှိသည်တွင် နောက်ဆုံးကျင့်ဝတ်တရား၌ ဒိသာသုပရိတ္တာဏံက ရောန္တိ ဟူ၍ ငါတို့ဘုရား ဟောကြားတော်မူသည်နှင့်အညီ တပည့်ဖြစ်သူတို့အား သွားလေရာ နေလေရာ ရှစ်မျက်နှာအရပ်တို့၌ ဥပါဒ်အန္တရာယ် အကွယ်အကာဂါထာမန္တရား ဆေးဝါးအင်းအိုင်တို့ကို ဆရာဖြစ်သူများက သင်ကြားပြုလုပ်ပေးကြရမည်ဟူသော ဘာသာကျင့်ဝတ်တရား ထင်ရှားရှိသည်အတိုင်း ယခုအခါ ကမ္ဘာပေါ်မှာ ထိုထို နိုင်ငံမြို့ရွာတို့၌ ဖြစ်ပေါ်၍နေသော ပုလိပ်ရောဂါ ဝမ်းရောဂါ အစရှိသော ကပ်ရောဂါမျိုးတို့၏ အကြောင်းအရာများကို ကာကွယ်ရန် နည်းလမ်းများနှင့်တကွ ပြဆိုသော ရောဂန္တရဒီပနီ အမည်ရှိသောကျမ်းကို စီရင်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာမျက်နှာ ၈၅-၈၆။)

လယ်တီဆရာတော်ဘုရားကြီးသည် သာသနာတော် အကျိုးပြုစုရာတွင် အခြားအခြားသော ပုဂ္ဂိုလ်များကလည်း လယ်တီဆရာတော်ဘုရားကို ကြည်ညို၍ မိမိတို့တတ်စွမ်းသမျှ တာဝန်ထမ်းကြကြောင်း ပါရမီတော်ကို ဖြည့်ကြကြောင်း အထောက်အထားများရှာဖွေတွေ့ရှိကြရပါသည်။

ယိုးဒယားနယ်စပ်တွင် နေထိုင်သော ရသေ့ဆရာသည် ဆရာတော်ဘုရားကြီးခြေတော်ရင်းသို့ အဖူးအမြော် အကန်တော့ရောက်ရှိလာ၏။ ရသေ့ဆရာသည် ဆရာတော်ဘုရားကြီးအား ဤသို့လျှောက်ထား၏။ ဆရာတော်ဘုရားကြီးသည် ပလိပ်ကပ်ရောဂါကို ကာကွယ်ရန် ရောဂန္တရဒီပနီကျမ်းစာအုပ် စီရင်တော်မူသည်ဟု ကြားသိရပါသည်။ ဆရာတော်ဘုရားကြီးအား အက္ခရာ(စ-မ)တံဆိပ် လှူဒါန်းပါရစေ ဟုလျှောက်၏။ ဆရာတော်ဘုရားကြီးသည် ဆရာရသေ့၏အက္ခရာ(စ-မ)တံဆိပ်၏ အကျိုးသွားနှင့် အကြောင်းအရာကို စုံလင်စွာ ပြောပြစေလိုကြောင်း အမိန့်တော်ရှိရာ

ရသေ့ဆရာက တစ်နေ့သ၌ တပည့်တော်ဆွမ်းခံနေသော တောရွာကလေးမှာ ပလိပ်ရောဂါဖြစ်ပါသည်။ ညဥ့်အခါ အိပ်မက်မြင်မက်သည်မှာ တပည့်တော်၏ ကျောင်းသင်္ခမ်းသို့ ဝတ်ဖြူစင်ကြယ်နှင့် လူဆယ်ယောက်ခန့်တက်လာပါသည်။ အကြီးအမှူးပြုလုပ်သူက တပည့်တော်အား ပြောဆိုသည်မှာ ဆရာရသေ့၏အပေါ်၌ ကျေးဇူး



များနေသော ရွာငယ်ကလေး၌ ပလိပ်ရောဂါဖြစ်နေသည်ကို အဘယ့်ကြောင့် လျစ်လျူရှုနေသနည်းဟု ပြောဆိုပါသည်။ ထိုအခါ တပည့်တော်က ထိုအန္တရာယ်ကို ဆရာရသေ့ပျောက်ငြိမ်းအောင် မတတ်နိုင်ပါဟုပြန်ပြောမိဂါသည်။ ဒါဖြင့် ထိုအန္တရာယ်ကို ပျောက်ငြိမ်းရန် နည်းကောင်းပေးပါမည်၊ ခဲတံနှင့်စက္ကူပေးပါဟု တောင်းရာ တပည့်တော်က တောထဲ၌ ခဲတံစက္ကူဘယ်မှာ ရှိမလဲဟုပြောပါသည်။ ထိုအခါ အကြီးအမှူးပြုလုပ်သူက နောက်ပါလူတစ်ယောက်အား သစ်ရွက်တစ်ခုကို အခူးခိုင်းလိုက်ပါသည်။ ကျောင်း၏လှေကားရင်းတွင်ရှိသော ငှက်ပျောရွက်တစ်ခုကို ခူးယူခဲ့ပါသည်။ ၎င်းငှက်ပျောရွက်ပေါ်တွင် တစ်ကြောင်းဆွဲကာ အက္ခရာ(စ-မ) တံဆိပ်ကိုရေးဆွဲပြီး အဲဒီအက္ခရာတံဆိပ်သည် ပလိပ်ရောဂါကို ပျောက်ငြိမ်းစေတတ်သည်ဟုပြောပြီး ပျောက်ကွယ်သွားကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၆-၈၇။)

လယ်တီဆရာတော်ဘုရားကြီးသည် လောကီပညာရပ်များကိုလည်း သူ့အချိန်အခါနှင့်သူ သူ့အကြောင်းနှင့်သူ ချီးမြှင့်မြှောက်စားခဲ့ကြောင်း လေ့လာတွေ့ရှိရပါသည်။

နံနက် မိုးလင်းသောအခါ အနားတွင်ချထားသော ငှက်ပျောရွက်ကို ကြည့်ရှုရာ အက္ခရာ (စ-မ) တံဆိပ်ကို တွေ့မြင်ရ၍ ထန်းရွက် ပေရွက် စလူရွက်တို့ကိုရေးပြီး ရေတွင်စိမ်၍တိုက်ခြင်း၊ ပက်ဖျန်းခြင်း၊ လည်ပင်း၌ဆွဲထားခြင်း စသည်တို့ကို ပြုလုပ်ရာ နေ့ချင်းညချင်း ပျောက်ကင်းသွားပါကြောင်းသို့ပါ၍ ဆရာတော်ဘုရားကြီးသည် တစ်နိုင်ငံလုံး၏ ကျေးဇူးရှင်ကြီး ဖြစ်တော်မူသည့်အတိုင်း ဤအက္ခရာ (စ-မ) တံဆိပ်ကို အသုံးပြုတော်မူပါဘုရားဟု လျှောက်ကြားသွားပါသည်။ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် ၎င်းအက္ခရာ (စ - မ) တံဆိပ်ကို မီးခြစ် စည်သွပ်ပြားတွင်ရေး၍ လက်ဖွဲ့ပြုလုပ်ပြီးလျှင် ဘုရားရှေ့တော်တွင် ဂုဏ်တော် ၉ ပါးနှင့် ၂၄ ပစ္စည်းတို့ကို ရွတ်ဖတ်မန်းမှုတ်ပြီးလျှင် နွားသားကျွဲသားရှောင်သောသူတို့အား တစ်လုံးစီချီးမြှင့်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၇။)

လယ်တီဆရာတော်ဘုရားကြီး၏ သာသနာရေး ကြိုးပမ်းမှုများကြောင့် ဒီလစ်၊ ပိဋကတ္တယပါရဂူဘွဲ့တံဆိပ်တော် ဆပ်ကပ်လှူဒါန်းခြင်းခံရသည်မှာလည်း ကိုလိုနီခေတ် နယ်ချဲ့လက်ထက် ဖြစ်လင့်ကစား သာသနာတော်ကြီးကို မည်သူမျှ (ဝါ) နယ်ချဲ့တို့သည် ညှိုးနွမ်းအောင် မတတ်စွမ်းနိုင်ခဲ့ကြောင်း ကောက်ချက်ချနိုင်ပါသည်။ နယ်ချဲ့ကိုလိုနီခေတ်တွင်ပင် ရဟန္တာနှင့်ရဟန်းထူးများ ပွင့်ပေါ်ခဲ့ကြောင်း လေ့လာတွေ့ရှိရပါသည်။

၁၉၂၁ အေဒီ ၁၉၂၁ ခု၊ ဒီဇင်ဘာလ (၁၂၈၃ ခုနှစ်၊ နတ်တော်လ) မြန်မာနိုင်ငံတော် ရန်ကုန်မြို့ တက္ကသိုလ်ကျောင်းတိုက်ကြီး၏ အကြီးအမှူးဖြစ်သော (ချင်စယ်လာ) ဘုရင်ခံမင်းမြတ်က ရန်ကုန်မြို့ ယူနီဘာစီတီ သိပ္ပံကျောင်းတော်ကြီး ဖွင့်သော အထိမ်းအမှတ်ဖွင့်ပွဲသဘင်တွင် ဆက်ကပ်ရန်ဖြစ်လေသည်။ ၎င်း ဒီလစ်၊ ပိဋကတ္တယပါရဂူဘွဲ့တံဆိပ်တော်နှင့် စပ်လျဉ်း၍ မိမိမှတ်သားမိသမျှမှာ ယင်းဘွဲ့တံဆိပ်ကို အလှူခံတော်မူရန် ရန်ကုန်မြို့သို့ ကြွတော်မူပါမည့်အကြောင်း သံကြိုးရိုက်၍ ပင့်လေသည်။ ထိုအခါ ဆရာတော်ဘုရားကြီး၏တပည့် အပါးတော်မြဲ ရန်ကုန်ချောင်ဆရာတော် ဦးဓမ္မစာရီက တစ်ဖန် ပညာရုံးဝန်ထံသို့ သံကြိုးပြန်ရိုက်လိုက်လေသည်။

## သံကြိုးပြန်ကြားချက်



ဒကာတော် စာတော်ပြန် ဦးဘိုးဖြူထံသို့ အထက်အဆိုပါအတိုင်း သိမြင်ရန် အကြောင်းပြန်ကြားလိုက်ပါသည်။ ရဟန်းက သွား၍ ဘွဲ့တံဆိပ်လက်မှတ်ယူရန် မလျှောက်ပတ်၊ ရဟန်းထံသို့ လာရောက်ဆက်ကပ်မြဲ ဝတ္တရားရှိသည့်အတိုင်း သံကြိုးပြန်လိုက်ရသည်။ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် စစ်ကိုင်းတောင်ရိုး၌ ဆေးဝါးသုံးဆောင်လျက်ရှိနေရာ ထပ်မံ၍ ဤအကြောင်းနှင့် တစ်ဖန် လျှောက်ရန် မသင့်လျော်သဖြင့် ပထမ စီမံချက်အတိုင်း ဒကာဦးဘိုးဖြူက ရွက်ဆောင်ရန် လုံလောက်ပြီဖြစ်၍ သည်အတိုင်း သံကြိုးရိုက်၍ ပြန်လိုက်ပြီဒကာကြီး။

**ဦးဓမ္မစာရီ**
**စစ်ကိုင်းတောင်ရိုး**

(ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၁၆၈)

၁၉၂၁ အေဒီ ၁၉၂၁ ခု၊ ဒီဇင်ဘာလ ၄ ရက်၊ တနင်္ဂနွေနေ့ (၁၂၈၃ ခုနှစ် နတ်တော်လဆန်း ၅ ရက်နေ့) ထိုဘွဲ့တံဆိပ်တော်ကို လေလုံသံသေတ္တာနှင့်ထည့်၍ ဆရာတော်ဘုရားကြီး ဝါကပ် သီတင်းသုံး နေထိုင်တော်မူသော စစ်ကိုင်းတောင်ရိုး ဇေတဝန် မဟာလယ်တီစကြ်န်တိုက်ကျောင်းသို့ လာရောက်ဆက်ကပ်လှူဒါန်းပါကြောင်း သိရှိရပါသည်။ ရန်ကုန်မြို့ ယူနီဘာစီတီ သိပ္ပံကျောင်းတော်ကြီးဖွင့်သော အထိမ်းအမှတ်မင်းဘွဲ့ သဘင်ပွဲတော်ကြီးတွင် အကြီးအမှူးဥက္ကဋ္ဌ (ချင်စယ်လာ)ဖြစ်သော ဘုရင်ခံမင်းမြတ်က ဝန်ခံသည်မှာ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရ ဘွဲ့မည်မဟာထေရ် အရှင်လယ်တီဆရာတော်ဘုရားကြီးအား ပါဠိဘာသာ ပညာရပ်များကို ကမ်းတစ်ဖက်ရောက် တိုးတက်ထွန်းလင်းအောင် ရွက်ဆောင်တော်မူသည့်အတွက် မင်းမှူး အစုံအညီတို့ပါ ဒေါက်တာအော့လက်တားခေါ် (D. Litt) ဒီလစ်၊ ပိဋကတ္တယပါရဂူ ဟူသော ဘွဲ့တံဆိပ်တော်ကို ဆက်ကပ်လှူဒါန်းပါကြောင်းသိရှိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၁၆၈-၁၆၉။)

လယ်တီဆရာတော်ဘုရားကြီးသည် သာသနာပြု ကြွတော်မူရာ လမ်းခရီးစဉ်များကို မှတ်မိသူတို့က မှတ်တမ်းတင်ထားသည်မှာလည်း သမိုင်းတန်ဖိုးရှိလှပေသည်။ မြို့စဉ်ရွာစဉ်ကို အောက်တွင်ကြည့်ပါ။

မန္တလေးမြို့၊ အမရပူရမြို့၊ မြို့ဟောင်း၊ မြစ်ငယ်၊ ကျောက်ဆည်၊ မြစ်သား၊ ကူမဲ၊ သဲတော၊ ဝမ်းတွင်း၊ အင်းမကြီး၊ သိမ်တောင်၊ သာစည်၊ မိတ္ထီလာ၊ တောင်သာ၊ မလှိုင်၊ ပန်းအိုင်၊ ရုံးစည်ကြီး၊ မြင်းခြံ၊ နွားထိုးကြီး၊ ရမည်းသင်း၊ ပျော်ဘွယ်၊ ရွှေမြို့၊ ပျဉ်းမနား၊ လယ်ဝေး၊ တောင်တွင်းကြီး၊ တောင်ငူ၊ ဇေယျာဝတီ၊ ဖြူး၊ ကညွတ်ကွင်း၊ ပဲနွယ်ကုန်း၊ ကျောက်တံခါး၊ ပိန်းဇလုပ်၊ ညောင်လေးပင်၊ ဇီးကုန်း၊ စန်းကလေး၊ လက်ပန်ပု၊ ပြွန်တန်ဆာ၊ ဒိုက်ဦး၊ ပျဉ်ပုံကြီး၊ ပဲခူး၊ သနပ်ပင်၊ ရစ်ကန်ကြီး၊ နိဗ္ဗာန်၊ သံတံခါး၊ ခရမ်း၊ ကျိုက်ထို၊ တောင်စွန်း၊ ကော့ကဒွပ်၊ ဘီးလင်း၊ ကျိုက်ကော်၊ သထုံ၊ မော်လမြိုင်၊ မဒေါက်၊ ပုဇွန်မြောင်း၊ ရွှေကျင်၊ အင်းဝ၊ တံတားဦး၊ ရွာသစ်၊ ငန်းစွန်၊ ဆမိတ်ခုံ၊ မြင်းမူ၊ ချောင်းဦး၊ မုံရွေး၊ ကြေးမုံ၊ အလုံ၊ မုံရွာ၊ ဘုတလင်၊ နောက်ချေးတော၊ နဂါးတွင်း၊ ထီးချိုင့်၊ မြစ်ကြီးနား၊ ပေါင်းဝ၊ ဆားထုံး၊ ရေစကြို၊ ပခုက္ကူ၊ ညောင်ဦး၊ ညောင်လှ၊ ရေနံချောင်း၊ မကွေး၊ မင်းဘူး၊ မြင်ကွန်း၊ မင်းလှ၊ မိချောင်းရဲ၊ ဆင်ပေါင်ဝဲ၊ အာလံ၊



သရက်၊ ပြည်၊ ရွှေတောင်၊ ကျီးသဲ၊ ကနောင်၊ မြန်အောင်၊ ကြံခင်း၊ ဟင်္သာတ၊ ထောင့်ကြီး၊ ဇလွန်၊ အဖျောက်၊ ဓနုဖြူ၊ ညောင်တုန်း၊ ပန်းတနော်၊ မအူပင်၊ မြောင်းမြ၊ ဝါးခယ်မ၊ ကျွန်းကုန်း၊ မဲဇလီ၊ ဆားမလောက်၊ ဖားကူး၊ အိုင်ကလောင်၊ ဒေးဒရဲ၊ ဖျာပုံ၊ ကျိုက်လပ်၊ သန်လျင်၊ မှော်ဝန်းချောင်း၊ ကျောက်တန်း၊ တံတားရွာ၊ သုံးခွ၊ ပါဒကြီး၊ အင်းစိန်၊ တိုက်ကြီး၊ အုတ်ကန်၊ သုံးဆယ်၊ သာယာဝတီ၊ စစ်ကွင်း၊ မင်းလှ၊ အိုးသည်ကုန်း၊ အုတ်ဖို၊ ကြို့ပင်ကောက်၊ ဇီးကုန်း၊ နတ်တလင်း၊ ပေါင်းတည်၊ ပုတီးကုန်း၊ သဲကုန်း၊ ဆင်မြီးဆွဲ၊ အင်္ဂပူ၊ မဲဇလီကုန်း၊ တဲကြီးကုန်း စသော မန္တလေး ရန်ကုန် မီးရထား လမ်းတစ်လျှောက်၊ ရန်ကုန် ပြည် မီးရထားလမ်းတစ်လျှောက်၊ ပျဉ်းမနား တောင်တွင်းကြီး မီးရထားလမ်းတစ်လျှောက်၊ ဟင်္သာတ ပုသိမ် မီးရထားလမ်း တစ်လျှောက်၊ ပဲခူး မော်လမြိုင် မီးရထားလမ်းတစ်လျှောက်၊ ညောင်လေးပင် ရွှေကျင်မဒေါက် မီးရထားလမ်းတစ်လျှောက်၊ ဟင်္သာတ ကြံခင်း မီးရထားလမ်းတစ်လျှောက်၊ စစ်ကိုင်း ရွှေဘို မြစ်ကြီးနား မီးရထားလမ်းတစ်လျှောက်၊ စစ်ကိုင်း မုံရွာ မီးရထားလမ်း တစ်လျှောက်၊ အလုံနောက်ချေးတော မီးရထားလမ်းတစ်လျှောက်၊ ပဲခူး ခရမ်း မီးရထားလမ်းတစ်လျှောက်၊ ဧရာဝတီ မြစ်ရိုးမြစ်စဉ်တစ်လျှောက် မြို့ကြီး မြို့ငယ် ထက်အောက် နှစ်ဖြာ မြို့ကြီး မြို့ငယ်များမှာ သူထက်ငါ အားကျမခံ တရားပွဲ မဟာဓမ္မသဘင်ကြီးတို့ကို အသီးအသီး ခင်းကျင်းစီမံ ပြုလုပ်ဆောင်ရွက်ကြသည်များမှာ နတ်ဘုံနတ်နန်းတမျှ မမြင်စဖူး အလွန်အကြူး ထူးကဲ ကြီးကျယ်လှကြောင်းကို ရေးသား၍ မဖော်မပြနိုင်လောက်အောင်ပင် ဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၆၉-၁၇၀။)

**လယ်တီဆရာတော်ဘုရားကြီးသည် စာရေးတော်မူသောအခါ မင်ကိုမသုံး ခဲတံကိုသာ တွင်တွင်ကြီးအသုံးပြုခဲ့ကြောင်း မှတ်သားစဖွယ် လေ့လာတွေ့ရှိရပါသည်။ ခဲတံဝန် ဟူသော စကားအဆန်း တစ်လုံးပင်တိုးလာပါသေးသည်။**

ကျေးဇူးရှင်လယ်တီဆရာတော် မဟာထေရ်မြတ်ကြီးသည် လယ်တီတိုက်ကြီးတွင် သီတင်းသုံးတော်မူစဉ် နေ့အခါ စာချလုပ်ငန်းဖြင့် ညဉ့်အခါ စာရေးလုပ်ငန်းဖြင့် တွင်ကျယ်စွာ ပြုလုပ်တော်မူ၏။ စာရေးတော်မူသောအခါ မင်နှင့် ရေးတော်မူလေ့မရှိ၊ များသောအားဖြင့် ခဲတံ ခဲလက်ရေးဖြင့်သာ ရေးတော်မူလေ့ရှိ၏။ ခဲတံချွန်ရန် ဦးပဍ္ဍင်း ဦးရေဝတအား ခဲတံဝန် ခန့်ထားတော်မူ၏။ ခဲတံဝန် ဦးရေဝတသည် နံနက်တိုင်း ခဲတံချွန်ရန် တာဝန်ယူရ၏။ ခဲတံချောင်းရေမှာ တစ်ရာကျော် နှစ်ရာခန့် အမြဲချွန်စေရ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၇၀-၁၇၁)

**လယ်တီဆရာတော်ဘုရားကြီးသည် စာရေးတော်မူသောအခါ ရေနံဆီမီးခွက်က သေးသဖြင့် ရေနံဆီပုံးကြီးကို မီးခွက်အဖြစ် သုံးတော်မူခဲ့ကြောင်း အံ့ဖွယ်ဝီရိယတော်ကို လေ့လာတွေ့ရှိရပါသည်။**

ရေးရန် စက္ကူများလည်း များသောအားဖြင့် လျှောက်လွှာပုံစံဆိုက် ဆင်တံဆိပ် စက္ကူများဖြစ်လေသည်။ ခဲတံဝန်က နံနက်တိုင်း ခဲတံချွန်ခြင်း ညဉ့်အခါက ဆရာတော်ဘုရားကြီး အကြမ်းရေးပြီးသမျှကို အချောသန့်ခြင်း တာဝန်များကိုလည်းယူရ၏။ ဖယောင်းတိုင်မီး



ရေနံဆီမီးကုန်သွား၍ စာရေးလုပ်ငန်း ရပ်ဆိုင်းထားရသည်ကို မကျေမနပ်ဖြစ်၍ နံနက်လင်းသောအခါ ကပ္ပိယကိုခေါ်တော်မူပြီး မုဆိုးမအိမ်က ရေနံဆီမီးခွက်ကလေးလို တော်ကာလျော်ကာ ကလေးကစားသကဲ့သို့ မလုပ်ကြစမ်းပါနှင့်၊ ရေနံဆီပုံးကြီးကို မီးခွက်ဖြစ်အောင် သံဖြူဆရာနှင့်တိုင်ပင်၍ ပြုလုပ်ခဲ့ရမည်၊ မီးစာမှာလည်း တစ်လစာ၊ နှစ်လစာ တပ်ခဲ့ရမည်၊ ရေနံဆီမှာလည်း အပြည့်ထည့်၍ ငါ့ခေါင်းရင်းက အဆင်သင့်ထားရမည်၊ ရေနံဆီမီးအတွက် အခက်အခဲ မရှိတော့ဘူးကွဲ့၊ အဲဒီအတိုင်း ချောမောအောင် ပြုလုပ်ခဲ့ရမည်ဟု အမိန့်ပေးတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၇၁)

လယ်တီဆရာတော်ဘုရားကြီးသည် အများအကျိုး သာသနာအကျိုးငှာ စာပေလုပ်ငန်းကြီးတွင် တစိုက်မတ်မတ် ကြီးကြီးကျယ်ကျယ် ခမ်းခမ်းနားနား ပြုလုပ်ခဲ့ပြီးနောက် ဘုရားရှင်ကို ကျေးဇူးဆပ်လိုသဖြင့် မိန့်ကြားတော်မူချက်များမှာ ယခုခေတ်အထိ မရိုးနိုင်ဘဲ လိုက်နာစရာ အချက်များဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

၁၉၁၇ အေဒီ ၁၉၁၇ ခု၊ အောက်တိုဘာလ ၈ ရက်၊ တနင်္လာနေ့ (သက္ကရာဇ် ၁၂၇၉ ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၈ ရက်နေ့) ဥပုသ်သီတင်း ဆောက်တည်ကြ၍ တရားနာကြရန် လယ်တီတိုက်ကျေးဇူးတော်ရှင်ဆရာတော်ဘုရားကြီး၏ ရှေ့မှောက်တော်သို့ ဆိုက်ရောက်လာကြသော မုံရွာမြို့ တရုတ်တန်း လယ်တီအလယ်ဘုရား အုတ်ကျောင်းတော်ကြီး ဒါယကာဦးကြယ် အဘိဓမ္မာဆရာကြီး ဦးသဲ၊ ကျောင်းဒါယကာ ဦးလူနီ၊ ကျောင်းဒါယကာ ဦးစံလှ၊ ကျောင်းဒါယကာ ဦးမြ၊ ဦးလှ၊ ဗိုလ်ကြီး ဦးစံလင်း၊ ဆာမုနိဘုရားဒါယကာ ဦးချစ်စု၊ ကျောင်းဆရာကြီး ဦးဖေယျ၊ ကုန်သည် ဦးကံထူးမှစ၍ လူယောက်ျား ဥပါသကာများ၊ ဒေါ်ကောက်တေး အမေရုံ၊ ဒေါ်ရွှေအိမ် ကျောင်းဆရာမ ဒေါ်ပို၊ ဒေါ်စက်ရွှေ၊ မသီလဝတီ၊ ဒေါ်စန္ဒာ စသော ဥပါသိကီဆွမ်းချက် အမကြီးများ ၎င်းပြင် တိုက်အုပ် ဦးဉာဏောဘာသ၊ ဦးသုန္ဒရ၊ ဦးအာသဘ စသော ထေရ်ကြီး ထေရ်ငယ်များ ဤသို့စသော ပရိသတ်တို့အား ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး မိန့်မြွက်တော်မူသည်မှာ -

တိုင်းကျိုးပြည်ကျိုး သာသနာတော်မြတ်ကြီး၏ အကျိုးကို မျှော်ကိုး ထောက်ထား၍ မြန်မာပြည်အထက်ပိုင်း အောက်ပိုင်းရှိ မြို့ရွာ နယ်ပယ်အသီးသီးတို့သို့ နှစ်ပေါင်း ၂၀ ခန့်လှည့်လည်ပြီး အဘိဓမ္မာ တရားရင်းကြီးတို့ကို ငါတို့ တိုင်းရင်းသား မြန်မာလူမျိုးတို့ နားလည်ကြစေရန် ပါဠိမတတ် မြန်မာစကားပြေ သက်သက်ဖြင့် အချက်ကျစွာ ဟောမှုပြောမှု သွန်သင်မှုအတွက် အဘိဓမ္မာ ဒေသနာတော်မြတ်ကြီးသည် နေဝန်းအလား လဝန်းအလား ကြွားကြွားစွင့်စွင့် အခွင့်အားလျော်စွာ ပွင့်လင်းထွန်းကား၍ လာသည်မှာ အများလူရှင်တို့ အသိပင်ဖြစ်ကြသည်။

ယခုအခါ ရှေးက ကြံရွယ်ရင်း ရှိသည့်အတိုင်း နယ်လှည့်တရားဟောပြောမှု ပြုလိုသော လုပ်ငန်းကြီးတို့ကို ရပ်ဆိုင်းပြီး မြတ်စွာဘုရား၏ ကျေးဇူးတော်ကိုဆပ်ရန် အခွင့်အရေး ကျန်ရှိနေသေးသဖြင့် လူ ရှင် ရဟန်းတို့ ရောပြွမ်းခြင်းမရှိသော အလုံမြို့ အရှေ့ ကြီးတွင်းတောရကြီးသို့သွား၍ ကျေးဇူးဆပ် လုပ်ငန်းကြီးကို တွင်ကျယ်စွာ ပြုလုပ်လိုသည်။ ငါ၏ ဝေယျာဝစ္စ အမှုကြီးငယ်ကို ဆောင်ရွက်ရန် ရဟန်းဘက်က မောင်ဝဏ္ဏိတနှင့် လူဘက်က ကပ္ပိယတစ်ဦး၊ ၎င်းတို့ ၂ ဦးပါလျှင် သင့်လျော်ပြီဟု အမိန့်တော်ရှိသည်။



၁၉၁၇ အေဒီ ၁၉၁၇ ခု၊ အောက်တိုဘာလ ၁၄ ရက်၊ တနင်္ဂနွေနေ့ (၁၂၇၉ ခုနှစ်၊ သီတင်းကျွတ် လကွယ်နေ့) မုံရွာလယ်တီတိုက်မှ ထွက်တော်မူ၍ ဒုင်းနေ့ ၅ နာရီအချိန် ကြီးတွင်းတောရကြီးကို ချောမောစွာ ဆိုက်ရောက်တော်မူသည်။

လယ်တီဆရာတော်ဘုရားကြီးသည် ထူးထူးခြားခြားအားဖြင့် မဟာသရဏဂုံတော်ကြီးကို အကြိမ်ပေါင်း ၂ သန်းကျော်မျှ ရွတ်ဖတ်သရဇ္ဈာယ်ကြောင်း လေ့လာတွေ့ရှိရပါသည်။ မဟာသရဏဂုံ အောင်မြေဟူ၍ ယခုအခါ လူသိများခဲ့သော နေရာကြီးမှာ အလုံမြို့ အရှေ့ရှိ နေရာကြီးဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

၁၉၁၇ အေဒီ ၁၉၁၇ခု၊ အောက်တိုဘာလ ၁၅ ရက်၊ တနင်္လာနေ့ (၁၂၅၇ ခု တန်ဆောင်မုန်းလဆန်း ၁ ရက်နေ့)မှ စ၍ တစ်နေ့နှင့် တစ်ညဉ့် ၂၄ နာရီလျှင် ဗုဒ္ဓမဟာသရဏဂုံတော်ကြီး၊ ဓမ္မမဟာသရဏဂုံတော်ကြီး၊ သံဃာမဟာသရဏဂုံတော်ကြီး အကြိမ်ပေါင်း (၁၄၄၀၀) တစ်သောင်းလေးထောင်လေးရာ နေ့စဉ်မစဲ အမြဲမပြတ် ပုတီးစိပ်ကြီး ပြုလုပ်တော်မူရာ တပေါင်းလကွယ်အထိ ၅ လ တိုင်တိုင်ဖြစ်ပါသည်။ မဟာသရဏဂုံတော်ကြီး အကြိမ်ပေါင်း (၂၁၁၆၈၀၀) နှစ်သန်းတစ်သိန်းတစ်သောင်းခြောက်ထောင်ရှစ်ရာ ဖြစ်ပါသည်။

ဤကဲ့သို့ ၅ လတိုင်တိုင် ကြံ့ခိုင်သော ဝီရိယာဓိပတိ စိတ်ဓာတ်တော်ဖြင့် ကျေးဇူးဆပ် ပုတီးစိပ်ကြီး ဆုံးခန်းတိုင်မြောက် ပြီးစီးခြင်းသို့ ရောက်တော်မူသောအခါ တွင်းကြီးတောရမှ မုံရွာ လယ်တီတိုက်သို့ ကြွတော်မူလာပါသည်။ ဒုက္ခသစ္စဝဏ္ဏနပဏာမ မဟာသရဏဂုံတော်ကြီး ၁၈၆၊ သမုဒယသစ္စဝဏ္ဏနာ ပဏာမ မဟာသရဏဂုံတော်ကြီး ၈၇၊ နိရောဓသစ္စဝဏ္ဏနာ ပဏာမ မဟာသရဏဂုံတော်ကြီး ၄၂၊ မဂ္ဂသစ္စဝဏ္ဏနာ ပဏာမ မဟာသရဏဂုံတော်ကြီး ၁၀၅၊ နိဗ္ဗာနဝဏ္ဏနာ ပဏာမ မဟာသရဏဂုံတော်ကြီး ၆၃၊ စုစုပေါင်း ၄၈၃ ဒုင်းမဟာသရဏဂုံတော်ကြီး ၄၈၃ ကို စုပေါင်း၍ ကျေးဇူးဆပ်နည်းနိဿယဟူသော အမည်ဖြင့် စာအုပ်ထွက်ပေါ်လျက်ရှိနေပြီ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၉၄-၁၉၆။)

လယ်တီဆရာတော်ဘုရားကြီးသည် သာသနာတော်ကြီးအတွက် မည်ရွေ့မည်မျှကြိုးပမ်းကြောင်းကို ငယ်ရွယ်စဉ်ကာလမှစ၍ ကြိုးပမ်းခဲ့သော လုပ်ငန်းတော်ကြီးများကို မှတ်တမ်းအားဖြင့် အံ့စဖွယ် လေ့လာတွေ့ရှိရပါသည်။ အောက်တွင် ဖတ်ကြည့်ပါကသိနိုင်ပါသည်။

သတ္တဝါတို့အား ချမ်းသာစေလိုသောဆန္ဒဖြင့် အန္တရာယ်ကို ကွယ်ကာမှု အထုံဝါသနာပါခြင်းသည် ယခုမှသာ မဟုတ်၊ ငယ်ရွယ်စဉ်အခါ စာသင်သားအရွယ်မှစ၍ ပြုလုပ်ကာကွယ်လာ၏။ အကျယ်ကို ဆိုဦးအံ့။

၁။ မန္တလေးမြို့စံ ကျောင်းတိုက်ကြီးမှာ ပထမစာချအဖြစ်နှင့် နေစဉ်အခါ အတူနေသမဂ္ဂများ မကျန်းမမာရှိလျှင် တပည့်တော်အား ပြောကြားကြပါ။ တပည့်တော် ဂိလာနုပဋ္ဌာက အလုပ်အကျွေးပြုလုပ်ပါမည်ဟုဖိတ်ကြားထား၏။

၂။ မကျန်းမမာသူ ပေါ်ပေါက်လာလျှင် ဆေးအခွင့်ရှိလျှင် ဆေးဖြင့် မငြိုမငြင်လုပ်ကျွေး၏ ဓာတ်စာအခွင့်ရှိလျှင် ဓာတ်စာဖြင့်လုပ်ကျွေးတော်မူ၏။ လူမမာရှိသောကျောင်းကို အုန်းသီးရှိလျှင်အုန်းသီး၊ ငှက်ပျောသီးရှိလျှင်ငှက်ပျောသီးကို ရောက်အောင်ပို့၏။ လူမမာပင် မစားနိုင်သော်လည်း လူမမာပြုစုသူတို့ ပေါပေါများများစားလျက်ချမ်းချမ်းသာသာပြုစုနိုင်ပါစေဟု ရည်ရွယ်တော်မူ၏။ အချို့ လူမမာအား ဆေးဖိုးဝါးခ



အနှိပ်သည်ကြေးငွေဖြင့် ထောက်ပံ့လုပ်ကျွေး၏။ အချို့သော လူမမာအား ကိုယ်တိုင် စောင့်ရှောက်၍လုပ်ကျွေး၏။ မိမိနှင့်အကျွမ်းဝင်သောသူ အကျွမ်းမဝင်သောသူဟု ရွေးချယ်ခြင်းကိုလည်းမပြု၊ လူမမာတွေ့လျှင် ချမ်းသာစေချင်သောဆန္ဒ ရှေ့ထားလျက် ဘယ်လိုနည်းနှင့် ပြုစုထောက်ပံ့ရပါမလဲဟု အောက်မေ့ကြံစည်ကာ လူမမာ၏ တာဝန် အတိတဇကို အလွန်ခံတော်မူ၏။ လူမမာ၌ ဘယ်လိုအလုပ်မျိုးကို သူများမလုပ်ချင် သလဲ၊ သူများမလုပ်ချင် မလုပ်နိုင်သောအလုပ်ကိုငါလုပ်မည်၊ သူများမဆောင်နိုင်သော နေရာကနေ၍ ဆောင်ကြဉ်းမည်ဟူသော ဝီရိယကို အမြဲထားတော်မူ၏။ သူနာ၏ အဝတ်သက်နိုးလျှော်မှုဖွပ်မှု အညစ်အကြေး သုတ်သင်မှုအလုပ်သည် သူများမလုပ်ချင် သော အလုပ်ဖြစ်သည့်အတွက် မည်သည့်လူမမာ၏ အဝတ်သက်နိုးမဆို ဖွပ်လျှော်စရာ ရှိလျှင် တပည့်တော်ဖွပ်လျှော်ပါရစေဟု ဖိတ်ကြားလျက် မရွံမရှာ အမိသည် သားသမီး၏ အညစ်အကြေးကို သုတ်သင်ဘိသို့ သုတ်သင်တော်မူ၏။

ဤကဲ့သို့ ပြုလုပ်ရွက်ဆောင် ထောက်ပံ့သည့်အတွက် စံကျောင်းတိုက် တစ်တိုက်လုံး၏ ဆေးဆရာကြီးသဖွယ် ဆရာဝန်ကြီးသဖွယ်ဖြစ်ရှိနေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၉၉-၂၀၀။)

ဤသို့အားဖြင့် မဟာလယ်တီဆရာတော်ဘုရားကြီး၏ မဟာရုပ်ပုံလွှာကို အံ့သြကြည်ညိုစဖွယ် လေ့လာတွေ့ရှိရပါသည်။

## မီးသဂြိုဟ်ခဲ့သော သာကေများ

၁၉၂၃ မြန်မာ့သာသနာဝင်တွင် နေတစ်ဆူ လတစ်ဆူပမာ ထင်ရှားကျော်ကြားတော်မူသော ပရိယတ် ပဋိပတ် အကျော် လယ်တီဆရာတော်သည် အေဒီ ၁၉၂၃ ခု၊ ဇွန်လ (၁၂၈၅ ခု ဝါဆိုလပြည့်နေ့)တွင် ပျံလွန်တော်မူခဲ့၏။

သို့သော် နောက်ထပ် ၉ လကြာမှ ဈာပနပွဲကို ပြုလုပ်ကြောင်းသိရပါသည်။

၁၉၂၄ ဈာပနပွဲကို အေဒီ ၁၉၂၄ ခု၊ မတ်လ ၁၉ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၂၈၅ ခု တပေါင်း လပြည့်နေ့)တွင်မှကျင်းပကြ၏။

စည်ကားသိုက်မြိုက်စွာ ၇ ရက်တိတိ ကျင်းပသော ဈာပနပွဲသို့ အင်္ဂလိပ် တိုင်းမင်းကြီးများ၊ အရေးပိုင်မင်းများ၊ အနယ်နယ်မှ ဆရာတော်ကြီးများနှင့်တကွ ရဟန်းရှင်လူပရိသတ်အပေါင်းတို့ သောင်းသောင်းဖြဖြလာရောက်ကြ၏။

ပုဂ္ဂိုလ်ကြည်ညို တွယ်တာမှုဖြင့် အသုဘဖြစ်သည့် အလောင်းတော်ကိုပင် မသဂြိုဟ်ရက်ဘဲ ဂူသွင်းထားသည်ကို ဆရာတော်ဘုရား သက်တော်ထင်ရှားရှိစဉ်က ဆန္ဒတော်အတိုင်း နတ်များကပင် ကူညီဖေးမလျက် မီးသဂြိုဟ်ခြင်းအမှုကို ပြီးမြောက် စေခဲ့လေသလော။

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘဝဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီဂီ ပုံနှိပ်တိုက်၊ စာ ၈၀ ကို ကြည့်ပါ။)

ဆင်ဖြူတော်များ လာဖူးသည်ဆိုသော မဏိပူရ ရေပြင်ပေါ်တွင်

လမ်းလျှောက်ကြွသည်ဆိုသော အာသံသာသနာပြု

# ရာဇဂုရု အာသံ ပယင်းတွင်း ဆရာတော် ဦးနန္ဒ

ခအေဒီ ၁၈၄၇ – ၁၉၀၇ (၁၂၀၉ – ၁၂၆၈)





၁၉ ရာစု အစပိုင်းက ဖြစ်ရပ်မှန်များ ဖြစ်သော်လည်း ကျွန်ုပ်တို့ မသိခဲ့ကြပါ။ ပယင်းတွင်းဆရာတော်ဘုရားကြီးအကြောင်းဟူ၍ အာသံသာသနာပြု ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်အကြောင်းကို စတင်ကြားဖူးသည်မှာ တောင်တန်းသာသနာပြု ပရိတ်ရေဆူဦးဥတ္တမသာရ ဆရာတော်ကြီး၏ ဟောပြောချက်ကြောင့်ဖြစ်ပါသည်။

> **ဆင်ဖြူတော်များ လာရောက်ဖူးမြော်ကြသည့် အကြောင်းကိုလည်းကောင်း၊ ရေပေါ်တွင် လမ်းလျှောက်၍ မဏိပူရမြစ်တစ်ဖက်ကမ်းသို့ကူးသွားသည့် အကြောင်းတို့ကိုလည်းကောင်း၊ ကျားနှင့်အတူ မီးလှုံသည့် အကြောင်းတို့ကိုလည်းကောင်း၊ မကြုံစဖူး အကြောင်းတရားကို တောင်တန်းသာသနာပြု ဆရာတော်ဘုရားကြီး ဟောကြားလိုက်သောအခါ အာသံရောက် ဗုဒ္ဓသာသနာတော်ကြီး အကြောင်းတရားတို့ကို အံ့စဖွယ် သိရှိရပါတော့သည်။**

(ကျမ်းကိုး၊ ထိုအကြောင်းတို့ကိုလည်း သင့်ဘ၀ ဦးလေးကြီး ဦးတင်မောင်က ထပ်ဆင့်၍ သာသနာ့ကို ဝါဒဖြန့်လိုက်ပြန်သောအခါ ကျွန်ုပ်တို့မှာ မကြုံစဖူး ထူးထူးခြားခြား သိရပါတော့သည်။)

ထိုဆရာတော်ကြီး၏ ထေရုပ္ပတ္တိကျောက်စာ စိုက်ထူထားသည်ကိုလည်း သိရပြန်ပါသည်။ ထိုကျောက်စာသံပိုင်းကို အဘယ်မှာ ရေးထိုးထားသနည်းဟု ရှာပြန်ရသည်။ ထိုအခါ ထိုကျောက်စာသံပိုင်းကို အာသံပြည်အထက်ပိုင်း မာဂရီတာမြို့မှ နာမ်မဟုတ်ကျောင်း ကမ်းရိုးတန်းတစ်လျှောက် အကောက်မိုင် ခြောက်မိုင်၊ အဖြောင့်မိုင် သုံးမိုင်ခွဲခန့်ရှိ ရှမ်းဘာသာဖြင့် ဖာကြယ်ခေါ်သောရွာ၏ လက်ယာဘက် အဆိုပါနာမ်မဟုတ်ချောင်းနှင့် မနီးမဝေးကုန်းမြင့်ပေါ်တွင် တည်ထားသော ဆရာတော်ဘုရားကြီး၏ အရိုးစေတီတော်အတွင်း၌ တွေ့ရှိရလေသည်။

(ဓမ္မာစရိယ ဦးဋ္ဌေးလှိုင်သည် သာသနာကို အံ့ဖွယ် ဖော်ထုတ်နိုင်သူလည်း ဖြစ်ပါသည်။ အာသံသာသနာပြု ကျောက်စာတော် မော်ကွန်းတွင် ပယင်းတွင်း ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကို ဖော်ပြထားကြောင်း တွေ့ရပါသည်။)

ဤကဲ့သို့ မြန်မာဘာသာဖြင့် ရေးထိုးထားသည့် ကျောက်စာမှာ အာသံပြည် သာသနာဝင်မှတ်တမ်းတွင် ဤတစ်ခုကိုသာ တွေ့ရသည်မှာ သိရှိရပါသည်။

( မူရင်းဖော်ပြချက်ကို ၁၃၁၆ ခု တန်ဆောင်းမုန်းလပြည့်နေ့ထုတ် သာသနာ့ ရောင်ခြည်၊ အတွဲ (၃)၊ အမှတ် (၄)၊ စာမျက်နှာ ၁၈/၁၈ တို့တွင်ဖော်ပြထားကြောင်းတွေ့ရပါသည် )

## မန်လည်တွင် ခန္ဓာဝန်ချခြင်း အာသံသို့ အရိုးအိုးယူသွားခြင်း

ဆရာတော်ဘုရားကြီးသည် မန်လည်မြို့တွင် ခန္ဓာဝန်ချတော်မူပါသည်။ သို့သော်လည်း အရိုးအိုးကို အာသံသို့ ပင့်ဆောင်သွားကြသည်။ ကျောက်စာတော်ကိုလည်း ထိုအာသံမှာပင် ရေးထိုးခဲ့သည်မှာ ထူးခြားလှသည်။

၁၉၀၀ ရာဇဝင်ရှုဘွဲ့ရ အာသံ ပယင်းတွင်း ဆရာတော်ကြီးသည် အေဒီ ၁၉၀၀ (သက္ကရာဇ် ၁၂၆၂ ခု)တွင် ဆရာတော်ကြီးကို ကသာဒိစတြိတ် မန်လည်မြို့၊ ကျွန်းပင်သာတွင် ပျံလွန်တော်မူပြီးနောက် အရိုး ဓာတ်တော်တို့ကို မန်လည်မြို့မှ အာသံပြည်သို့ အရှင်ကိဝဏ္ဏသာရမထေရ် ပင့်ဆောင်တော်မူခဲ့၍ အာသံပြည်တွင် ရှေးဦးစွာ သာသနာပြုတော်မူခဲ့သော အထိမ်းအမှတ်အဖြစ် အဆိုပါ အရိုးဓာတ် အစုစုတို့ကို



ဌာပနာလျက် စေတီတည်ထားတော်မူပြီးလျှင် ၎င်းအရိုးစေတီတော်အတွင်းတွင် ဆရာတော် ဘုရားကြီး၏ သာသနာပြု မှတ်တမ်းနှင့် ထေရုပ္ပတ္တိကျောက်စာသံပိုင်းကို စိုက်ထူတော်မူခဲ့လေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ မောင်ပန်းမွှေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၂၈)၊ ၁၀-၁၀-၂၀၀၅ ကို ကြည့်ပါ။)

## ပြဟ္မပုတ္တရ မြစ်ရေပြင်တွင် ရေပေါ်လမ်းလျှောက်ခဲ့သော ဆရာတော်

ပြဟ္မပုတ္တရ မြစ်ရေပြင်ပေါ်တွင် ဈာန်ဖြင့် ကြွတော်မူခဲ့သော ပယင်းတွင်း ဆရာတော်ဘုရားကြီး၏ မဟာရုပ်ပုံလွှာကြီးသည် တောင်တန်းသာသနာပြုဆရာတော်ကြီး အဘိဇဇအဂ္ဂမဟာ သဒ္ဓမ္မဇောတိက ဘဒ္ဒန္တဥတ္တမသာရ၏ ကျေးဇူးတော်ကြောင့် မြန်မာပြည်တစ်နံတစ်လျား သိရှိသွားရပါသည်။ ပိုမို စိတ်ဝင်စားသူများက ထေရုပ္ပတ္တိကို အသေအချာ ရှာဖွေကြရပြန်ပါသည်။ ထိုအခါ သာသနာ့ရောင်ခြည် စာစောင်တွင် ကျောက်စာတော်မူရင်းကို ရှာဖွေတွေ့ရှိရသဖြင့် ဝမ်းသာကြရပြန်ပါသည်။ မူရင်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

၁၈၄၇ ပယင်းတွင်း ဆရာတော်ဘုရားကြီးကို ၁၂၀၉ ခု ကဆုန်လဆန်း ၁၀ ရက်၊ စနေနေ့ နံနက် ၄ ချက် မတီးမီအချိန်တွင် ဖွားမြင်တော်မူကြောင်းသိရပါသည်။

၁၈၃၈ အသက် ၁၂ နှစ်အရွယ်သို့ ရောက်သောအခါ ၁၂၂၀ ပြည့် ဝါဆိုလဆန်း ၈ ရက်နေ့တွင် ပယင်းတွင်း မိုင်းခွန်မြို့နေ အိမ်ကြီးရှင်ကျာနှင့် ဇနီးယာကျာတို့က သာသနာ့ဘောင်သို့ သွတ်သွင်း ချီးမြှောက်သဖြင့် ရှင်နရိန္ဒာဘိဇဟူသော ဘွဲ့အမည် မင်္ဂလာကို ဆရာမြတ်တို့ကနှင်းအပ်တော်မူကြသည်။

၁၈၄၆ ၎င်းနောက် သာမဏေ ၈ ဝါ၊ ၇ ဝါမြောက် သက်တော်၁၉ နှစ်ကျော်အရွယ်သို့ ရောက်သောအခါ ရှင်သာမဏေအဖြစ်မှ မြင့်မြတ်သော ရဟန်းဘဝသို့ရောက်၍

၎င်းနောက် ၆ ဝါ မြောက်သည့်နေ့ကစ၍ ပယင်းတွင်း ဟော်ကောင်းနယ်များ၌ ပွဲမ်းတီး နေထိုင်ကြကုန်သော ချင်း၊ ကချင်၊ ရှမ်းတို့သည် ယစ်မျိုးကို သောက်စား မြူးတူး၍ ကျွဲနွားတို့အား သတ်ဖြတ်လျက် ယစ်ပူဇော်ခြင်းစသော မိစ္ဆာဝါဒအယူအဆ များကို ပယ်ပျောက်ခြေချွတ်တော်မူ၍

၁၈၆၉ ၁၂၃၀ ပြည့်နှစ် ရတနာပုံ ရွှေပြည်တော် သာသနာပြု ပခန်းကြီးဆရာတော် ထံ မှီခိုရှင်ပြုံး သီတင်းသုံးရန် ပဥ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးသည် သဒ္ဓါကြည်ညိုတော်မူလှ၍ ဉာဏ်တော် ၃ တောင်ရှိ ကျောင်းတော်မူ ဘုရားတစ်ဆူ စာအင်္ဂါ ၃၃၀ ကျော်၊ သင်္ကန်းပရိက္ခရာ စသော လှူဖွယ်အစုစုတို့နှင့် 'နရိန္ဒာဘိဇ မွေ့ဝံသ သာသနာ့ပါလ မဟာဓမ္မရာဇာဓိရာဇဂုရု' ဟူသော ပထမတံဆိပ်ကို အလှူ တော်မြတ်ခံယူရရှိခြင်း၊

၁၈၈၁ ၁၂၄၂ ခုနှစ် ၎င်းရတနာပုံရွှေပြည်တော်သို့ စုန်ဆင်းရာ သီဟိုဠ်ကျွန်းမှပြန် သော ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ကျွမ်းဝင်ဆုံတွေ့ကြသဖြင့် မာရ်အောင်ရတနာ စေတီတော် ဒါယကာ သီပေါမင်းတရားသည် သုံးတန်သော စေတနာ ပြဋ္ဌာန်းတော်မူ ၍ ပယင်းတွင်းဆရာတော်ဘုရားကြီးအား 'နရိန္ဒာဓဇ သီရိပဝရ သာသနာ့ဇောတိက မဟာဓမ္မရာဇာဓိရာဇဂုရု'ဟူသော ဒုတိယတံဆိပ်ခတ်နှိပ် လှူဒါန်းတော်မူသည်ကို အလှူတော်မြတ်ခံယူခြင်း၊



၁၈၈၉ ၁၂၅၁ ခု တန်ဆောင်မုန်းလသို့ ရောက်သောအခါ လုပ်ခွန်စော်ဘွား စသော ခုနစ်ဦးသော စော်ဘွားတို့၏ လျှောက်ထားမှုကြောင့် သုံးနှစ်ကျော်မျှ ခန္တီးပြည်တွင် သီတင်းသုံးတော်မူခဲ့သည်။

၁၈၉၁ ၁၂၅၃ ခု၊ နတ်တော်လဆန်း ၇ ရက်နေ့တွင် ဝေသာလီပြည်သို့ ကြွရောက်တော်မူပြန်သည်။ အာသံအဝင် အိမ်ထောင်မည်သော ဖာကြယ်ရွာမတွင် မိုးကောင်း၊ မလွန်၊ ဝလုတ်၊ တပေါင်၊ နံတိုင်းဒေသ ရွာများကို ဂေါစရပြု၍ ဝေသာလီ၊ ကောသာလီ၊ ခန္တီး၊ ဒေါနီယာ၊ ဖာကြယ်ရွာစသော ချင်း၊ ကချင် လူမျိုးတို့ကို ၁၂၅၃ ခုနှစ် စတင်၍ ၁၂၆၂ ခုနှစ် နယုန်လပြည့်ကျော် ၄ ရက်နေ့အထိ တရားရေအေးတိုက်ကျွေးခဲ့ပြန်သည်။

၁၉၀၀ ၎င်းနောက် ၁၂၆၂ ခု၊ တန်ခူးလပြည့်ကျော်တွင် ကျောင်းခန်းရွာတွင် တစ်ခါ တစ်ရံမျှ မကြုံစဖူး အထူးဝိသေသဖြစ်သော မဟာခဏ္ဍသိမ်သမုတ် တည်ထားတော်မူခဲ့ပြန်သည်။

၁၉၀၀ ၎င်းနောက် ၁၂၆၂ ခု၊ ကဆုန်ပြည့်ကျော် ၁၁ ရက်နေ့ ဖာကြယ် အိမ်ထောင်ရွာ တောင်မျက်နှာ တာ ၃၀ ကွာသော အရပ်၌ မဟာခဏ္ဍသိမ်သမုတ်တော်မူပြန်၍ နယုန်လဆန်း ၁၂ ရက်၊ အင်္ဂါနေ့တွင် အန္တေဝါသိက တပည့်ကြီးဖြစ်သော ဦးကဝိန္ဒသာရမထေရ်အား အာဗောဓာရာမတိုက်နှင့်တကွ သာသနာ့အရိုက်အရာ အာဏာ တံဆိပ်တော်များကို နှင်းအပ်လွှဲထား ပေးသနားတော်မူ၍

ဇာတိချက်ကြွေရာမှ ပယင်းတွင်း မိုင်းခွန်းမြို့သို့ အာသံပြည် မဏိပူရမြို့များသို့ ကြွသွား လမ်းဖြတ်၍ ကင်းတပ်မြို့၊ ပဲခူးဆရာကျောင်းတွင် ဒုတိယဝါကပ်ဆိုတော်မူလျက် တန်ဆောင်မုန်းလ မန္တလေးမြို့သို့ စုန်ဆင်းကြွလှမ်း၍

နတ်တော်လဆန်း ၄ ရက်နေ့ မန္တလေးမြို့ရှိ ရဟန်းသံဃာတော် ၁၀၀၀ ကျော်တို့အား သင့်လျော်ကောင်းမြတ်သော ဆွမ်းဘောဇဉ်အာဟာရ ကပ်လှူခဲ့၍ ဝဇီရာရာမ ဆရာတော်နှင့် နောက်ပါသံဃာတော်များခြံရံလျက် သီဟိုဠ်ကျွန်းသို့ စွယ်တော်ဖူး ကြွခဲ့ပြန်သည်။

၁၉၀၁ ၁၂၆၃ ခု၊ တန်ခူးလ မိုင်ခွန်မြို့သို့ ကြွရောက်တော်မူ၍ ဒါယကာအပေါင်းတို့ ဆောက်လုပ်ကိုးကွယ်အပ်သော စုလစ်မွန်းချွန်ဇေတဝန်ပမာဏ ကြီးကျယ်ခမ်းနားသော မဟာဝိဟာရ၌ ၆ နှစ် တိုင်တိုင် ဟောကြားခြေချွတ်တော်မူပြီးနောက် -

၁၉၀၇ ၁၂၆၈ ခု၊ နယုန်လ ပယင်းတွင်း မဟာဝိဟာရမှ ကသာဒိစတြိတ်မန်လည်မြို့ ကျွန်းပင်သာဌာနတွင် ယာပထမျှညီ၍ ပဥ္စမဝါဆိုတော်မူသောအခါ ဝါခေါင်လပြည့်ကျော် ၁ ရက်နေ့တွင် ဗျာဓိတရား ဝေဒနာ ၉၆ ပါးတို့သည် တန့်နားခြင်းမရှိ တရွေ့ရွေ့ ကပ်ငြိတိုးတက်ရာ တတ်သိလိမ္မာလှစွာသော ဟူးရားအကျော်သမားတော်တို့နှင့် ၁၀ ရက်တိုင်တိုင် ကုသငြားသော်လည်း ဘုရားပစ္စေက ရဟန္တာတို့ကြွရောက်ရာလမ်းကြောင်း မတိမ်းမစောင်းနိုင်သဖြင့် -

၁၉၀၇ ၁၂၆၈ ခု ဝါခေါင်လပြည့်ကျော် ၁၀ ရက်၊ တနင်္လာနေ့ ၃ နာရီခွဲအချိန်တွင် စုတိကမ္မဇရုပ် ငြိမ်းချုပ်ပျံလွန်တော်မူခဲ့ပါသည်ဟု ကျောက်စာသံပိုင်းအရ သိရပါသည်။



(ကျမ်းကိုး၊ မူရင်းဖော်ပြချက်ကို ၁၃၁၆ ခု တန်ဆောင်မုန်းလပြည့်နေ့ထုတ် သာသနာ့ရောင်ခြည်၊ အတွဲ (၃)၊ အမှတ်(၄)၊ စာမျက်နှာ ၁၇/၁၈ တို့တွင်ဖော်ပြထားကြောင်း တွေ့ရပါသည်။)

၁၉၀၇ ၁၂၆၈ ခု၊ နှောင်းတန်ခူးလပြည့်ကျော် ၁၁ ရက်နေ့တွင် အဂ္ဂိပူဇာသရီရ ဈာပနကိစ္စကို ဆင်ယင်ကျင်းပခဲ့ကြပါသည်။ ကြွင်းကျန်သော အရိုးတော်ဓာတ်စုကို ဦးကဝိအရှင်မြတ် ယူဆောင်ကြဉ်း၍ သန့်ရှင်းသော ဤနေရာဝယ် သေချာစွာ ကိုးကွယ်တည်ထားတော်မူခဲ့ပါသည်ဟူ၍ ပယင်းတွင်း ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ ကျောက်စာသံပိုင်းတွင် ဖော်ပြထားခဲ့ပါသည်။

(ကျမ်းကိုး၊ ထိုအကြောင်းတို့ကို တောင်တန်းသာသနာပြုကျေးဇူးကြောင့် တစ်ကြောင်း၊ ဓမ္မာစရိယဦးဌေးလှိုင် ကျေးဇူးကြောင့်တစ်ကြောင်း၊ သင့်ဘဝ ဦးလေးကြီး ဦးတင်မောင် ကျေးဇူးကြောင့် တစ်ကြောင်းသိရှိခဲ့ရပါသည်။ ၎င်းအပြင် အသေးစိတ်အချက်အလက်များကို တောင်တန်းသာသနာပြုဆရာတော်ကျေးဇူးကြောင့် ထပ်ဆင့်သိရပြန်ပါသည်။)

## ကျောက်စာတော်ကြီး တည်နေရာ

အထက်ပါ မဟာထေရုပ္ပတ္တိ ကျောက်စာတော်ကြီးသည် အာသံပြည် အထက်ပိုင်းရှိ မာဂရီတာမြို့မှ နာမ်မဟုတ်ချောင်း ကမ်းရိုးတန်းတစ်လျှောက် အကောက်မိုင်ခြောက်မိုင်၊ အဖြောင့်မိုင် သုံးမိုင်ခွဲခန့်ရှိ ရှမ်းဘာသာဖြင့် ဖာကြယ်ခေါ်သောရွာ၏ လက်ယာဘက် အဆိုပါ နာမ်မဟုတ်ချောင်းနှင့် မနီးမဝေး ကုန်းမြင့်ပေါ်တွင်တည်ထားသော ဆရာတော်ဘုရားကြီး၏ အရိုးစေတီတော်အနီးတွင် တည်ရှိလေသည်ဟုသိရပါသည်။

ပယင်းတွင်းဆရာတော်ကြီးမှာကား ဤမှာဘက်ခေတ် အာသံပြည် ဗုဒ္ဓဘာသနာဝင်တို့၏ ကျေးဇူးတော်ရှင်ကြီး အစစ်ဖြစ်ခဲ့၏။ ထိုကြောင့်လည်း မြန်မာပြည်ထွက် ထေရုပ္ပတ္တိများတွင် တွေ့ရခဲသော မှတ်တမ်းများ ဖြစ်နေသဖြင့် လူသိနည်းခြင်းဖြစ်ပါသည်။ ယခုကား ပယင်းတွင်း ဆရာတော်ကြီးဟူ၍ တောင်ပေါ်မြေပြန့် ကြည်ညိုသူ ပေါ်များလှပါသည်။

## ဆရာတော်ကြီး၏ ဇာတိ

ဆရာတော်ကြီး၏ မျိုးရိုးမှာ ရှမ်းဗမာဖြစ်ပြီး ဖွားတော်မူရာ ဇာတိမြေမှာ မြစ်ကြီးနားခရိုင် ဟူးကောင်းချိုင့်ဝှမ်း ပယင်းကျောက်များထွက်ရာ မိုးကောင်းနယ်၊ မြောက်ဘက် တနိုင်းမြို့အနီး (အိမ်ခြေတစ်ထောင်ခန့်ရှိခဲ့ဖူးသော)မိုင်းခွန်ရွာကြီးဖြစ်လေသည်။

ဆရာတော်ကြီး၏ ဦးနရိန္ဒ၏ အာသံပြည်တွင်း လှည့်လည်၍ သာသနာပြုခဲ့သည့် မှတ်တမ်းအချို့ တောင်တန်းနယ်ခြားသာသနာပြုဆရာတော် အရှင်ဦးဥတ္တမသာရထံမှ မူရင်းအတိုင်း ရရှိခြင်းကြောင့်သာ ယခုကဲ့သို့ ပြည့်ပြည့်စုံစုံသိရှိရခြင်းဖြစ်ပါသည်။ ဆရာတော်ကြီးသည် ကျောက်စာတွင် မပါသော အကြောင်းအရာများကို ဖော်ပြထားခြင်း ဖြစ်ပါ သည်။ ထိုအချက်အလက်များမှာ ပေစာမူဟောင်းတစ်ခုမှ ကူးယူဖော်ပြချက်ဟူ၍ ဘင်္ဂါလီ အက္ခရာနှင့် ထုတ်ဝေသော အာသံပြည် ဗုဒ္ဓသာသနာဝင် အာသံမီယာ စာအုပ်မှ တွေ့ရှိရ၍ ထုတ်ယူဖော်ပြပါသည်ဟုတွေ့ရှိရပါသည်။

(ကျမ်းကိုး၊ တောင်တန်း နယ်ခြားသာသနာပြု ဆရာတော် အရှင် ဦးဥတ္တမသာရ၏ ကိုယ်တွေ့မှတ်တမ်းများ အမှတ်စဉ် ၂၊ ၁၉၉၀ခု၊ မေလ ဒုတိယအကြိမ်၊ ပြည်ဦးဘော ပုံနှိပ်တိုက်၊ ဓမ္မဗျူဟာ စာစောင်တိုက်၊ စာ ၅၆ )



## ရှမ်းဘာသာ ကချင်ဘာသာဖြင့် ဟောကြားသော ပထမဆုံး တရားဟောခရီးစဉ်

၁၈၉၁ ဆရာတော်ဘုရားကြီးသည် အေဒီ ၁၈၉၁ ဒီဇင်ဘာလ ၇ ရက်၊ တနင်္လာနေ့ (၁၂၅၃ ခု၊ နတ်တော် လဆန်း ၇ ရက်နေ့)တွင် အာသံပြည်သို့ရောက်၍ ပထမဆုံး ခမုန်းရွာ၌ (၈)ရက်တိုင်တိုင် သီတင်းသုံးတော်မူကာ ပတ်ဝန်းကျင် လူဒကာများအား ဗုဒ္ဓဘာသာ၏ သိမ်မွေ့နူးညံ့ပုံကို အစပိုင်း၌ဟောကြား၍ ဤဘဝ နောင်ဘဝ အလားအလာ ကောင်းကြောင်းနှင့်စပ်လျဉ်းသော တရားစကားကို ကျယ်ကျယ်ပြန့်ပြန့်ကြီး ဟောကြားတော်မူ၏။

(ကျမ်းကိုး၊ယင်းကျမ်း စာ ၅၆ )

စကားမှာ ရှမ်းဘာသာဖြင့်လည်းကောင်း၊ ကချင်ဘာသာဖြင့်လည်းကောင်း၊ ကြားနာသူ လူအားလုံး နားလည်ကြရန် ကွက်ကွက်ကွင်းကွင်း ဟောကြားဆုံးမပေးတော်မူသည်။

(ကျမ်းကိုး၊ယင်းကျမ်း စာ ၅၆ )

ခမုန်းရွာမှ ထွက်ကြွတော်မူလျှင် ကချင်လူမျိုးများ နေထိုင်ကြသော တိုက်ဖားရွာ၌ တစ်ည ကျိန်းဝပ်တော်မူ၍ တရားဟောတော်မူ၏။

တိုက်ဖားရွာမှ ရွှေ့ဆက်၍ ကြွတော်မူရာ ဆော်ဒီယားမြို့နယ် ဂဂမ် ခေါ် ကချင်လူမျိုးများ၏ ရွာ၌မူ (၆)ရက် ရပ်ဆိုင်းပြီး တရားဟောကြားတော်မူရာမှာ အားလုံးဗုဒ္ဓဘာသာဝင်များ ဖြစ်လာကြသည်။

ထိုရွာမှရွှေ့ဆက်၍ ကချင်လူမျိုးများ နေထိုင်ကြသော နိမ်ရှူးရွာ သို့ ကြွရောက်ပြီး ရက်ပေါင်း (၂၀)တိုင်အောင် ရပ်နားသီတင်းသုံးလျက် တရား ဟောကြားရာတွင် ဗုဒ္ဓဘာသာ အယူဝါဒသဘောကို အတော်နူးညံ့လာသည်အထိ ဩဝါဒပေးတော်မူခဲ့သည်။

(ကျမ်းကိုး၊ယင်းကျမ်း စာ ၅၆ )

## သရဏဂုံတည်ကြသော တောင်ပေါ်သားများ

ထို့နောက် ဒမ်ဆာ ခေါ်သော ကချင်ရွာ၌ တစ်ညရပ်နား၍လည်းကောင်း၊ အထက် ပီဆာ ခေါ်သော ကချင်ရွာ၌ တစ်ရက်ရပ်နား၍လည်းကောင်း၊ တရားဟောကြားခဲ့ပြီးလျှင် မာဂီရီတာမြို့နယ်သို့ ကြွသွားကာ၊ ရှမ်းလူမျိုးများနှင့် ကချင် လူမျိုးများ ပူပေါင်းနေထိုင်ကြသော ပင်ဆွန်ရွာသို့ ရောက်သော အခါ၊ ရက်သတ္တ ၂ ပတ်ကြာမျှ သီတင်းသုံးတော်မူ လျက် တရားဟောကြားတော်မူလေရာ လူအားလုံး တစ်သက်ပန် သရဏဂုံတည်ကြပြီး ဟောကြားတော်မူလေရာ လူအားလုံး တစ်သက်ပန် သရဏဂုံတည်ကြပြီး ငါးပါးသီလကိုလည်း ထာဝစဉ် စွဲမြဲဆောက်တည်ကျင့်သုံးသွားကြရန် ကတိဝန်ခံယူကြလေသည်။

(ကျမ်းကိုး၊ယင်းကျမ်း စာ ၅၇ )

ဆက်လက်၍ ကချင်လူမျိုးလည်း နေထိုင်ကြသော မထင်ရွာသို့ လည်းကောင်း၊ မိုးကောင်းရွာသို့လည်းကောင်း၊ ဦးကုပ်ရွာသို့ လည်းကောင်း၊ ဒွါမရာရွာသို့ လည်းကောင်း၊ ဆက်တိုက် လှည့်လည်၍ အချိန်ယူကာ တရားဟောကြား ဆုံးမတော်မူရာမှာ အထူးအောင်မြင်လေသည်။

(ကျမ်းကိုး၊ယင်းကျမ်း စာ ၅၇ )



## နတ်မိစ္ဆာဝါဒ စွန့်ပစ်ကြ၏

နတ်မိစ္ဆာဝါဒကို လုံးဝပယ်စွန့်ကာ ဗုဒ္ဓဘာသာ သမ္မာအယူဝါဒကို ပြောင်းဝင်ကြပြီး ကံ,ကံ၏ အကျိုးတရား အလင်းရောင် ပေါက်သွားကြသည်။ အထူးခြားဆုံးကား အဆိုပါရွာတို့မှ လူအားလုံးသည် ထိုအချိန်မှစ၍ ဗုဒ္ဓဘာသာစစ်စစ်ဖြစ်လာကြသည်။ သရဏဂုံ အမြဲတည်၍ ငါးပါးသီလကို လုံခြုံ သွားကြသည်။ ဝက် ကြက် လုံးဝ မမွေးကြတော့ချေ။ မွေးထားလျှင် သတ်မိကြလိမ့်မည်ဟု ပါဏာတိ ပါတကံ လုံးဝကင်းလွတ်အောင် နေထိုင်ကြခြင်းဖြစ်သည်ဟုသိရပါသည်။

(ကျမ်းကိုးယင်းကျမ်း စာ ၅၇ )

## ဆံခါပေါင်ဂိုဏ်းမှ

ထို့နောက် ဖာကြက်ခေါ် ရှမ်းရွာသို့ ဆရာတော်ကြီး ကြွရောက်သွားသောအခါ အစိုးရအခွန်တော် ကောက် သူကြီးဦးညီထန်ကစ၍ သူ၏ ညီများဖြစ်သော ညီနန် အိုင်မိုး ညီအောင်တို့က ခေါင်းဆောင်ပြီး သားမယားတို့နှင့်တကွ ၂၅ အိမ်ထောင်တို့သည် သူတို့ယခင်က ဆည်းကပ်နေကြသော ဆံခါပေါင်ဂိုဏ်းမှ စွန့်ခွာပြီးလျှင် ဆရာတော်ကြီး၏ တပည့် ဒကာရင်းအဖြစ် ဆည်းကပ် ကိုးကွယ်လာကြသည်။

ရှေးအခါဆီက မြန်မာပြည်နယ်စွန်နယ်ဖျား အချို့ဒေသတို့၌ ရှိခဲ့ကြဖူးသော ပွဲကျောင်း ယွန်းကျောင်းဘုန်းကြီးမျိုးကို အာသံပြည်မှ ရှမ်းစကားဖြင့် ဆံခါပေါင်ဟု ခေါ်ကြသည်။ ပွဲကျောင်းဘုန်းကြီး များသည် မဟာယာနဗုဒ္ဓဘာသာဆန်ဆန် ဖြစ်သော်လည်း လုံးဝထပ်တူခြင်းမရှိကြပါ။

(ကျမ်းကိုးယင်းကျမ်း စာ ၅၇)

## အားလုံး ဗုဒ္ဓဘာသာဝင် ဖြစ်ကြ

အချို့သော ဆံခါပေါင်ဂိုဏ်းဝင် ဘုန်းကြီးများသည် ဆရာတော်ထံ ဆည်းကပ်ကိုးကွယ်၍ တရားနာယူကြပြီး ဆရာတော်ကြီး၏ ဆုံးမဩဝါဒခံယူကာ ရဟန်းလောင်း ဖြစ်လာကြသည်လည်းရှိသည်။

ထိုရွာမှ ရှေ့ခရီးဆက်၍ တပေါင်ရွာ၊ အိမ်ထောင်ရွာ၊ နိန္နာရွာ၊ ပါဝေရွာ၊ နမ်ဒိုင်ရွာ စသည်တို့သို့ ကြွရောက်ကာ တရားဟောကြားပေးတော်မူရာ အားလုံး ဗုဒ္ဓဘာသာဝင်များ ဖြစ်လာကြသည်။

(ကျမ်းကိုးယင်းကျမ်း စာ ၅၈)

## ဆော်ဒီနယ်မှ ရဟန်းသုံးပါး

ထို့နောက် ဆော်ဒီယား စော်ဘွားနယ်အတွင်းသို့ ကြွရောက်တော်မူ၍ ကျောင်းခမ်း ရှမ်းရွာကြီး၌ ခေတ္တသီတင်းသုံးနေထိုင်တော်မူသည်။ ထိုနယ်ကို အုပ်စိုးသော စော်ဘွားကြီး စောဆာသည် ဆရာ တော်ကြီး ကြွရောက်လာသည်ကို ဝမ်းသာအားရ ခရီးဦးကြိုပြုလျက်ဧည့်ဝတ်ပြုသည်။ ဆရာတော်ကြီး တရားကို နာကြားရလျှင် အထူးကြည်ညိုလှသဖြင့် ဆရာတော်ကြီး လိုအပ်သမျှကို လေးလေးစားစား အကူအညီပေးလေသည်။

(ကျမ်းကိုးယင်းကျမ်း စာ ၅၈)

ဆက်လက်၍ စော်ဘွားကြီး စောဆာ၏ နယ်အတွင်းရှိ ခယ်ရိမ်းရွာ၊ နန့်ကိုင်းရွာ၊ နန်ဆိုင်းရွာ၊ နမ်လောင်ရွာ၊ ဆိုင်ဆပ်ရွာ၊ ဆွန်ပူရာရွာတို့မှ ရှမ်းအမျိုးသား အားလုံးတို့သည်လည်း ဆရာတော်ကြီးအား ဆည်းကပ်ကြပြီး ရွာအသီးသီး၌ တရားပွဲကြီးများ အကြိမ်ကြိမ်ကျင်းပ၍ တရားနာယူကြသည်။ ဆုံးမ



ဩဝါဒကိုနာခံကြသည်။ ဗုဒ္ဓဘာသာ၏ အနှစ်သာရနှင့် ပြည့်စုံသော မှန်တရားတော်ကို ယခုမှ ကြားနာရပေသည်လည်း နှစ်ထောင်းအားရရှိကြသည်။ ဗုဒ္ဓဘာသာဝင်ဖြစ်လာကြသည်။

(ကျမ်းကိုး၊ယင်းကျမ်း စာ ၅၈)

## ကချင်လူမျိုး ရှမ်းလူမျိုးတို့အတွက် တရားပွဲ

၁၈၉၂ ဆရာတော်ကြီးသည် အဆိုပါ ကျောင်းခမ်းရှမ်းရွာကြီးမှ အေဒီ ၁၈၉၂ ၊ (၁၂၅၄ ခုနှစ်)အတွင်း ဖာကြယ်ရွာသို့ ပြန်လည်ကြွရောက်တော်မူခဲ့ရာ ရွာသူ ရွာသားများလူအများတို့သည် ဝမ်းသာအားရစွာဖြင့် ရွာ၏မြောက်ဘက် အိမ်ထောင်ခေါ်သော လယ်မြေအရံတွင် ဒါယကာတို့ ဆောက်လုပ်လှူဒါန်းကြသော ဝါးကျောင်း၌ သီတင်းသုံး ဝါဆိုတော်မူ၏။ တစ်ဝါတွင်းလုံးပင် ရှမ်းလူမျိုး ကချင်လူမျိုးတို့၏ ကြည်ညိုမြတ်နိုးခြင်းကို ခံယူကာ အစဉ် တရားဟောပြဆုံးမဩဝါဒ ပေးတော်မူသည်။

(ကျမ်းကိုး၊ယင်းကျမ်း စာ ၅၈)

## အာသံပြည်သား ရဟန်းများ

ဆော်ဒီယားနယ် ကျောင်းခမ်းရွာ၌ နေရစ်ခဲ့ကြသော ဆံခါပေါင်ဂိုဏ်းမှ တပည့်ခံလာသူ ဦးဝါယမ ဦးဣန္ဒဝံသ ဦးဂန္ဓမာတို့သုံးပါးကို ဆရာတော်ကြီးက မန္တလေးသို့ခေါ်ယူသွားပြီးလျှင် ရွှေကျင်ဆရာတော် ပခန်းဆရာတော် တောင်ခွင်သာသနာပိုင် ဆရာတော်ကြီးထံ ချဉ်းကပ်၍ ဆုံးမ ဩဝါဒခံယူကြသည်။

တပည့်ရဟန်း ၃ ပါးကို ဝိနည်းကံနှင့်အညီ ရဟန်းဖြစ်စေရန် လျှောက်ထားတိုင်ပင် ဆွေးနွေးကြရာ ဆရာတော်ကြီးများ၏ အကြံပေးချက်အရ ထိုဆရာတော်ကြီးများ၏ ထံတော်၌ပင် ကြောင့်ကြစိုက်ကာ ကံဆောင်ပေးတော်မူကြသည်။

ထိုအခါ အာသံပြည်သား ဇာတိတူ ရဟန်းတပည့်သုံးပါး ရပြီဖြစ်၍ ဆရာတော်ကြီးသည် အထူးအားတက်လျက် တပည့်များနှင့်အတူ အာသံပြည်သို့ ပြန်ကြွတော်မူခဲ့သည်။

(ကျမ်းကိုး၊ယင်းကျမ်း စာ ၅၉)

## အာသံပြည်၌ ပထမဆုံး ဖြစ်ပေါ်လာသော ကျောင်းတိုက်ကြီး

ဆရာတော်ကြီးသည် အာသံပြည်တွင်း လှည့်လည်၍ သွေးသားရင်း ဒကာတို့အား သနားကရုဏာဖြင့် ကယ်တင်ချွေချွတ်ပေးရေးကိုသာ ရှေးရှုလျက် ယာယီတဲကျောင်းကလေးများ၌ သီတင်းသုံး၍ လှည့်ပတ်သွားလာနေတော်မူခဲ့သည်။

၁၈၉၃ အေဒီ ၁၈၉၃ (၁၂၅၅ ခုနှစ်)တွင် ထူးခြားချက်မှာ တည်တံ့ခိုင်မြဲသော သစ်သားကျောင်းကြီးကို အလှူခံတော်မူရလေသည်။ ထိုကျောင်းကြီးကား ဖာကြယ်ရွာ၏ တောင်မျက်နှာအရပ်၌ နေရာကောင်းကိုရွေးချယ်၍ ဖာကြယ်ရွာရှိ ဒါယကာ ၂၅ အိမ်ထောင်တို့က ခေါင်းဆောင်ပြီး ကြံစည်ကြိုးစားကြရာတွင် ရှမ်းနှင့်ကချင် ရွာပေါင်း ၁၁ ရွာတို့က စေတနာထက်လာကြပြီး စိတ်ရောကိုယ်ပါ ကြိုးစားကူညီကြသည်။ တောသစ်သားတို့ဖြင့် ကိုယ်တိုင် ရွာဖွေ ခုတ်ယူ ထမ်းပိုး၍ အတော်ကြီးကျယ် ခန်းနားသော ကျောင်းကြီးကို စိတ်တိုင်းကျ အားရပါးရ ဆောက်လုပ်လှူဒါန်းကြခြင်းဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၉)



## အာသံက မြန်မာဘုန်းကြီးကျောင်း

အာသံပြည်တွင်း၌ ဗုဒ္ဓဘာသာ ရဟန်းပုဂ္ဂိုလ်များ သီတင်းသုံးနေထိုင်ရန် ကျောင်းကြီးသည် ဤအခါ ဤနေရာ၌ စစ္စာဦးဖြစ်ပေါ်လာခြင်းဖြစ်ပေသည်။ အဆိုပါ ကျောင်းကြီးကို အာဗောဓာရာမ ကျောင်းတိုက်ဟူ၍ အမည်ပေးလျက် ဆရာတော်ဘုရားကြီးသည် ၇ နှစ်တိုင်အောင် ပျော်ပိုက်စွာ သီတင်းသုံးတော်မူသွားသည်။

## ဗန္ဓုလ အမျိုးအနွယ်များ

၁၈၉၁-၁၉၀၀ ဆရာတော်ကြီးသည် အာသံပြည်၌ ရှိနေကြသည့် မြန်မာပြည်မှ သွေးရင်း အဆက်အနွယ်များဖြစ်ကြသော ရှမ်း ကချင် လူမျိုးတို့မှစ၍ အဟုန်း ဒိုးနီးယား ကောဆာဒီ ကောသမ္ဗီ ဗန္ဓုလမျိုးဟုခေါ်ကြသော မြန်မာများနှင့် အခြားသော သွေးသားရင်း မြန်မာ အဆက်အနွယ်တို့အား တစ်ရွာဝင် တစ်ရွာထွက် လှည့်လည်၍ တရားရေအေး အမြိုက်ဆေးကို တိုက်ကျွေးတော်မူခဲ့ရာ အေဒီ ၁၈၉၁၊ ဒီဇင်ဘာမှ ၁၉၀၀ ဇွန် ၁၅ ရက် သောကြာနေ့၊ (၁၂၅၃ ခု နတ်တော်လဆန်း မှစ၍ ၁၂၆၂ ခု နယုန်လပြည့်ကျော် ၄ ရက်နေ့) တိုင်အောင် ဖြစ်လေသည်။

(ကျမ်းကိုး။ယင်းကျမ်း စာ ၅၉ )

## ကျားကြီးနှင့်အတူ မီးလှုံခြင်းအကြောင်း အံ့ဖွယ်

**မဏိပူရ အာသံပြည် သာသနာဝင် သမိုင်းစဉ်တွင် ပြောစမှတ်ပြုရသော အာသံသာသနာပြု ရာဇဂုရု ပယင်းတွင်း ဆရာတော်ဘုရားကြီးသည် ဗြဟ္မပုတ္တရမြစ်ရေပြင်မှ ခြေလျင်ကြွနင်းခဲ့သော အကြောင်းအရာများမှာ တောင်တန်းသာသနာပြုဆရာတော်ကြီး ဟောပြောမှုတို့ကြောင့် အလွန်တရာ လူသိများခဲ့ပါသည်။ ကျားနှင့်အတူ မီးလှုံခြင်းအကြောင်း ဆင်ဖြူပျံများ လာ၍ ဆည်းကပ်ခြင်းအကြောင်း နတ်လှူသော သက်န်းအကြောင်း ကုလားရသေ့နှင့် ရေပေါ်သွားခြင်း အကြောင်းတို့ကိုလည်း လေ့လာဖတ်ရှုရပါသည်။**

(ကျမ်းကိုး၊ မှော်စရိယ ဦးဌေးလှိုင် ဓမ္မဒူတ ပထမတွဲ စာ - ၃၄၄ ၊ ၃၄၅ ၊ ၃၄၆)

သာသနာပြု ဆရာတော်ဘုရားကြီး၏ ချီးကျူးဖွယ်ရာ ဂုဏ်ထူးဝိသေသတို့ကား ထေရုပ္ပတ္တိ ကျောက်စာတွင် ဖော်ပြခြင်းမပြုရသေးသော အကြောင်းအရာတို့လည်း များစွာရှိလေသည်။ တောင်တန်း သာသနာပြုဆရာတော် ဦးဥတ္တမသာရ၏ အဟောအပြောကောင်းမှုတို့ကြောင့် ပယင်းတွင်း ဆရာတော် ဘုရားကြီးမှာ ထပ်ဆင့်၍ ဟိုးဟိုးကျော်ရပြန်ပါတော့သည်။ ဆရာတော်ကြီး ကိုယ်တိုင်လည်း မှတ်တမ်းများ ပြုခဲ့ပါသည်။ အောက်တွင်ကြည့်ပါ။

> ပယင်းတွင်း၊ ဟူးကောင်း၊ ခန္တီးနယ်ကြီးနှင့် အာသံပြည်များကို ထူးခြားစွာ သာသနာတော်ပြုခဲ့သောကြောင့် လေးနိုင်ငံ သာသနာပြုဆရာတော်ကြီးဟူ၍ ကျော်ကြားတော်မူ၏။ ကျော်ကြားသလောက် ကြီးမားသော ကရုဏာ၊ ထက်သန်သော စေတနာ၊ ထူးကဲသောလုံ့လ ဝီရိယစွမ်း၊ မြင့်မြတ်သောစိတ်ဓာတ်၊ ရင့်ကျက်သော ပါရမီဓာတ်ခံရှိတော်မူပါပေသည်။ သတ္တဝါတို့အပေါ်၌ ထားရှိသော မေတ္တာစိတ်များသည် အံ့ဩလောက်အောင်ကြီးမား၍ သီလဂုဏ်၊ သမာဓိဂုဏ်၊ ကိုယ်ကျင့်တရားတော် တို့ဘက်၌လည်း ပြည်စုံလှ၍ အထူးကြည်ညို လေးစားထိုက်ပါပေသည်။



တစ်ခါက နာဂသျှူတြ တောင်တန်းကြီးအနီးရှိ တောကျောင်း၌ဝါကပ်တော်မူစဉ် ဆရာတော်ကြီး မီးလှုံနေကျ မီးဖိုသို့ တောထဲမှ ကျားကြီးတစ်ကောင်လာ၍ မီးလှုံလေ့ရှိသည်။ ကျားကြီးသည် ညစဉ်လိုလို ညဦးပိုင်းတွင်လည်းကောင်း၊ နံနက်စောစောပိုင်းတွင်လည်းကောင်းလာ၍ ဆရာတော်ကြီးနှင့်အတူ တစ်ဖက်စီထိုင်ကာ မီးလှုံနေကျဖြစ်သောကြောင့် အိမ်၌မွေးထားသော ခွေးကလေး၊ ကြောင်ကလေးများကဲ့သို့ပင် ရင်းနှီးစွာယဉ်ပါးနေတော့သည်ဆို၏။

တစ်နေ့သောနံနက် ဆရာတော်သည် အရုဏ်တက်ချိန် မီးလှုံခိုက် တပည့်ဦးပဥ္စင်းတစ်ပါးသည် ထုံးစံအတိုင်း ယာဂုကပ်ရန်လာသောအခါ ဆရာတော်ကြီးအနီး၌ထိုင်၍ စိတ်ချလက်ချ မီးလှုံနေသောကျားကြီးသည် မီးငွေ့နွေးသောကြောင့် ပါးစပ်ကြီးအဟောင်းသားနှင့် တဆတ်ဆတ် ငိုက်နေပုံကိုတွေ့မြင်ရသည်။ ဦးပဥ္စင်းသည် လူငယ်ဘဝ စိတ်ကစားသဖြင့် 'အခုနေ ဒီကျားကြီး ငိုက်နေတုန်း သူ့ပါးစပ်ထဲ မီးခဲကြီးတစ်ခုလောက် ကောက်ထည့်လိုက်ရရင် လန့်ပြီးအော်ပြေးမှာပဲ' ဟူ၍ စိတ်ထဲက ကြံစည်အောက်မေ့လိုက်သည်။ ထိုအခိုက် တစ်ခဏချင်း ကျားကြီးသည် ရဟန်းငယ်၏ စိတ်အကြံကို သိသကဲ့သို့ လန့်နိုးလာပြီးလျှင် ကြောက်မက်ဖွယ် ဟိန်းဟောက်လျက် ကိုက်မည်လုပ်လေသည်။ ဆရာတော်ကြီးက မကိုက်မိစေရန် လက်ကာ၍ တားလိုက်ရသည်ဆို၏။

တပည့်ရဟန်းငယ်ကိုလည်း 'ဘာကြောင့် သူ့ကိုစိတ်နဲ့ ပြစ်မှားရတာလဲ၊ သည်အမှုဟာ သင်ကစခြင်းဖြစ်တယ်၊ နောက်နောင် ဒီအချိန် ငါ့ထံ သင်မလာခဲ့နဲ့' ဟူ၍ ဆုံးမလိုက်လေသည်။ ဤဖြစ်ရပ်ကို အာသံပြည်၌ အမြဲပြောလျက်ရှိနေကြသည်။

(ကျမ်းကိုး၊ (၁) တောင်တန်းသာသနာပြု ဦးဥတ္တမသာရ ကိုယ်တွေ့မှတ်တမ်း၊ စာ - ၆၀ ၆၁။ (၂) ဓမ္မာစရိယ ဦးဌေးလှိုင်၊ ဓမ္မဒူတ သာသနာ့ဝံသကထာ၊ ၁၉၈၅ ဒီဇင်ဘာ ပထမအကြိမ် စာ ၃၄၄၊ )

## ကောင်းကင်မှ ဆင်ပြူများပျံလာ၍ ဆရာတော်ကြီးကို ဆည်းကပ်ခြင်းအကြောင်း

တောင်တန်းသာသနာပြု ဆရာတော်ကြီး၏ ကောင်းမှုကြောင့် ယုံချင်ယုံ မယုံချင်နေ ဟူ၍ပင် ပြောစမှတ်ပြုရလောက်သော အံ့သြဖွယ်ရာ ကြည်ညိုဖွယ်ရာ ဖြစ်ရပ်မှန်များ ပေါ်ထွက်လာပါသည်။ မှုရင်းပုဂ္ဂိုလ်၏ ထူးခြားမှုကြောင့်တစ်ကြောင်း၊ မှတ်တမ်းတင်သူ ပုဂ္ဂိုလ်ထူး၏ ထူးခြားမှုကြောင့် တစ်ကြောင်း၊ အံ့ဖွယ်ဖြစ်ရပ်မှန်များပေါ်ထွက်လာ၍ ထေရဝါဒ သာသနာတော်ကြီး၏ ဂုဏ်ရောင်မှာ မျက်မှောက်ခေတ်တိုင် နေလိုလလိုဖြစ်ခဲ့ရပါသည်။ အောက်ပါမှတ်တမ်းကိုကြည့်ပါ။

> ဆရာတော်ဘုရားကြီး သီတင်းသုံးရာ တောကျောင်းသည် လူနေရွာနှင့်လှမ်းသဖြင့် သစ်ပင်တောအုပ်ထူထပ်သော နေရာလည်းဖြစ်သောကြောင့် လူဒါယကာတို့က ကျောင်းပတ်လည်ကို လုံခြုံအောင် တောသစ်သားတို့ဖြင့် ဝင်းခြံကာရံ ပေးထားကြသည်။ တစ်ရက်သော ဥပုသ်နေ့အခါ လူဒါယကာတို့သည် ဆွမ်းအုပ်များကိုယ်စီနှင့် ဥပုသ်စောင့်လာကြစဉ် ဝင်းခြံကို နင်းကျော်ရာမရှိဘဲလျက် ကျောင်းဝင်းအတွင်းမြေပြင်၌ ဆင်ခြေရာများ ထူးဆန်းစွာတွေ့မြင်ကြရသည်။ ထို့ပြင် မွှေးကြိုင်လှသော ဆင်ချေးများကိုပါ တွေ့ကြရသည်။ ဆရာတော်ကြီးကို မေးလျှောက်သောအခါ ညအချိန်တွင်



ဆင်ဖြူပုံများ လာတတ်ကြောင်း၊ ကျောင်းဝင်းခြံကို ပုံ၍ဝင်ကြထွက်ကြကြောင်း အမိန့်ရှိသဖြင့် သိကြရသည်ဆို၏။ စန္ဒကူးနံ့သာကဲ့သို့ အလွန်မွှေးကြိုင်သော ဆင်ချေးများကို ဥပုသ်သည်တို့ ဝေငှယူသွားကြသောဟူ၍ ဥပေါသထဆင်မျိုးဖြစ်ပေမည်ဟု စာတတ်ရဟန်းပုဂ္ဂိုလ်များက ပြောဆိုနေကြသည်။

(ကျမ်းကိုး၊ (၁) ယင်းကျမ်း စာ၊ ၆၁။ (၂) ဓမ္မာစရိယဦးဌေးလှိုင်၊ ဓမ္မဒူတ သာသနာ့ဝံသကထာ၊ ၁၉၈၅ ဒီဇင်ဘာ၊ ပထမအကြိမ် စာ ၃၄၅၊)

## ဆရာတော်ကြီးသည် နတ်လှူသော သက်န်းရခြင်းအကြောင်း

ထို့ပြင် ထူးခြားချက်နောက်တစ်ခုမှာ ဆရာတော်ကြီး တောကျောင်း၌ သီတင်းသုံးနေစဉ် ကျောင်းဝင်းအတွင်းရှိ သစ်ပင်တစ်ပင်၏ခွကြား၌ ဧကသီတစ်ထည် ပုံ့သကူ ပစ်ထားသည်ကို ဆရာတော်ကြီးတွေ့ရှိရလေသည်။ ပုံ့သကူကောက်ယူပြီး သေချာစွာကြည့်သောအခါ အတော်ထူးခြားသော အဝတ်သက်န်း ဖြစ်နေကြောင်းသိရသည်ဆို၏။

၎င်းအကြောင်း တစ်ဆင့်စကားကြားရသဖြင့် လူရှင်အများ ရဟန်းပုဂ္ဂိုလ်များပါ လာရောက်ကြည့်ရာ လူ့ပြည်တွင် ဘယ်တိုင်းပြည်ကမှ ရက်လုပ်သောအဝတ်မျိုးနှင့်မတူသောကြောင့် နတ်လှူသော သက်န်းထူးသာဖြစ်ရမည်ဟု ခန့်မှန်းပြောဆိုနေကြသည်။ အချို့ကလည်း သိကြားမင်းက လှူခြင်းဖြစ်မည်ဟုပြောကြသည်။

(ကျမ်းကိုး၊(၁) ယင်းကျမ်းစာ၊ ၆၁။ (၂) ဓမ္မာစရိယဦးဌေးလှိုင်၊ ဓမ္မဒူတ သာသနာ့ဝံသကထာ၊ ၁၉၈၅ ဒီဇင်ဘာ၊ ပထမအကြိမ် စာ ၃၄၅၊)

## ကုလားရသေ့နှင့် တန်ခိုးပြိုင်၍ ရေပေါ်တွင် မထိပ္ပရမြစ်ကိုဖြတ်၍ လမ်းလျှောက်သွားခြင်းအကြောင်း

ထူးခြားချက်တစ်ခုမှာ တစ်ခါက ကုလားရသေ့တစ်ဦးသည် ဗုဒ္ဓသာသနာပြုပယင်းတွင်းဆရာတော်ကြီး တန်ခိုးကြီးကြောင်း ကြားသိရပါသည်ဟု လူဒါယကာတို့ထံ လာရောက်ပြောဆိုကြသည်။ 'သင်တို့ ဆရာဘယ်လောက်စွမ်းလို့ တန်ခိုးကြီးသလဲ၊ ငါဟာ ဖြူဟွာပုတြမြစ်ကို တစ်ဖက်ကမ်းမှ အခြားတစ်ဖက်ကမ်းသို့ ကျောက်ခဲခင်း ပြီးတူးပြနိုင်တယ်' ဟူ၍ပြောလာသည်။ ၎င်းအကြောင်း ဆရာတော်ကြီးကို လျှောက်ထားကြသည်။

ထိုအခါ ဆရာတော်က 'ကောင်းပြီ သူ့အစွမ်းပြပါစေ၊ ပြောလိုက်ကြပါ' ဟု အမိန့်ရှိသဖြင့် ဒါယကာတို့က နှစ်ဖက်စလုံးကို တောင်းပန်ကာ စီစဉ်ပေးကြရာ လူအများရှေ့တွင် ကုလားရသေ့သည် ဗြဟ္မပုတြမြစ်ကို ကျောက်ခင်း၍ တစ်ဖက်ကမ်းမှတစ်ဖက်ကမ်းသို့အရောက် တကယ်ပင်ကူးပြသွားလေသည်။ ထို့နောက် ဆရာတော်ကြီးကလည်း လူအများ ရှေ့တွင် ဗြဟ္မပုတြမြစ်ကိုပင် အခြားနေရာ၌ တစ်စုံတရာမခင်းဘဲ မြစ်တစ်ဖက်ကမ်းအရောက် ရေပြင်ပေါ် မြေပြင်ကဲ့သို့ ခြေတင်ကာ ဖြတ်ကူးကြွသွားပြလေသည်။

ထိုအခါမှစောင့်ကြည့်နေသော အာနာပါန တန်ခိုးစွမ်းပြ ကုလားရသေ့သည် 'သူ့ထက်သာပါပေသည်'ဟု အံ့ဩစွာ ချီးမွမ်းစကားပြောဆိုကာ ရှိုသေညွတ်လာသည်ကို အမှတ်တရပြောဆိုနေကြသည်။



(ကျမ်းကိုး၊ (၁) ယင်းကျမ်းစာ၊ ၆၂။ (၂) ဓမ္မာစရိယဦးဋ္ဌေးလှိုင်၊ ဓမ္မဒူတ သာသနာ့ဝံသကထာ၊ ၁၉၈၅ ဒီဇင်ဘာ၊ ပထမအကြိမ် စာ ၃၄၆၊)

အထက်ပါ အကြောင်းအရာတို့မှာ တောင်တန်း သာသနာပြုဆရာတော်ကြီး ဦးဥတ္တမသာရ ကိုယ်တော်တိုင် မှတ်တမ်းတင်တော်မူခဲ့ခြင်းဖြစ်ပါသည်။

(ကျေးဇူးတော်ရှင် တောင်တန်းနယ်ခြား သာသနာပြုဆရာတော် အရှင်ဦးဥတ္တမသာရ၏ ကိုယ်တွေ့မှတ်တမ်း အတွဲ ၂ စာ ၅၆၊ ၅၇ ၊ ၅၈၊ ၅၉)

၁၉၀၇ ၁၂၆၈ ခု ဝါခေါင်လပြည့်ကျော် ၁၀ ရက်၊ တနင်္လာနေ့ ၃ နာရီခွဲအချိန်တွင် စုတိကမ္မဇရုပ် ငြိမ်းချုပ်ပျံလွန်တော်မူခဲ့ပါသည်ဟု ကျောက်စာသံပိုင်းအရ သိရပါသည်။

(ကျမ်းကိုး၊ မူရင်းဖော်ပြချက်ကို ၁၃၁၆ ခု တန်ဆောင်မုန်းလပြည့်နေ့ထုတ် သာသနာ့ရောင်ခြည်၊ အတွဲ (၃)၊ အမှတ် (၄)၊ စာမျက်နှာ ၁၈/၁၈ တို့တွင်ဖော်ပြထားကြောင်း တွေ့ရပါသည်။)

၁၉၀၇ ၁၂၆၈ ခု၊ နှောင်းတန်ခူးလပြည့်ကျော် ၁၁ ရက်နေ့တွင် အဂ္ဂိပူဇာသရီရ ဈာပနကိစ္စကို ဆင်ယင် ကျင်းပခဲ့ကြပါသည်။ ကြွင်းကျန်သော ရိုးတော်ဓာတ်စုကို ဦးကဝိအရှင်မြတ်ယူဆောင်ကြည်း၍ သန့်ရှင်းသော ဤနေရာဝယ် သေချာစွာ ကိုးကွယ်တည်ထားတော်မူခဲ့ပါသည်ဟူ၍ ပယင်းတွင်း ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ ကျောက်စာသံပိုင်းတွင်ဖော်ပြထားခဲ့ပါသည်။

အထက်ပါ ဆောင်းပါးမှာ - မသိသူကျော်သွား၊ သိသူဖော်စား၊ ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့် ရဟန်းထူးများပေါင်းချုပ်ကြီး၊ အာသံ သာသနာပြု ပယင်းတွင်း ဆရာတော်ဘုရားကြီး (၁) အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၂၇၊ ၃-၁၀-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။ အာသံ သာသနာပြု ပယင်းတွင်း ဆရာတော်ဘုရားကြီး (၂) အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၂၈၊ ၁၀-၁၀-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

# စစ်ကိုင်း ဝတ်ချက်မင်းကျောင်းဆရာတော်ကြီး

## ခေတ် ၁၈၅၃ – ၁၉၂၆ ( ၁၂၁၅ – ၁၂၈၈ )





၁၄၀၁ ဝတ်ချက်ရွာဆိုသည်မှာ အေဒီ ၁၄၀၁ ခု (သက္ကရာဇ် ၇၆၃ ) တွင် အဝမြို့၌ မင်းဖြစ်သော ပထမ မင်းခေါင်ကြီးက တည်သော ဆွမ်းဝတ်ကို လက်ပံရွာသူတို့ ဆောင်ရွက်ရသောကြောင့် ဝတ်ချက်ရွာဟု တွင်သည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ အနောက်ပရက္ကမ ဆရာတော်၏ ဖြစ်စဉ်နှင့် ကျင့်စဉ်များ စာ ၁၂၄၊ )

၁၅၉၈ အေဒီ ၁၅၉၈ ခု ( သက္ကရာဇ် ၉၆၀ ပြည့်နှစ် ) ညောင်ရမ်းမင်းလက်ထက်တွင် စစ်ကိုင်းတောင်ရိုး၌ အရည်းကင်ခုတင်ဆောင်၍ ဝတ်ချက်ရွာကို အမှီပြု၍ နေကြသော ရဟန်း ပုဂ္ဂိုလ်တို့အား ဆွမ်းဝတ် ပြုကြစေခြင်းငှာ စားမိုးစားမြေများ ချထားခဲ့ကြောင်းကိုလည်း သိရှိရပါသည်။

(ကျမ်းကိုး၊ တောင်ဗီလာ ပုဂ္ဂိုလ်ကျော်၏ မှတ်တမ်း)

သို့သော်လည်း ယခုခေတ် ရွာသူရွာသားအချို့တို့ကမူ ဝါးချက်ရွာဟု ခေါ်ဝေါ်အသုံးပြုကြသည်။ ဝါးချက်မှာ အဓိပ္ပာယ်မရှိ၊ ဝတ်ချက်သာလျှင် အဓိပ္ပာယ်ရှိ၍ သုတိမင်္ဂလာရှိသည်။ ပရက္ကမညီနောင် နှစ်ပါးတို့သည်လည်း ဝတ်ချက်ရွာ၌ပင် ၁၅ ရက် လှည့်လည်ဆွမ်းခံခဲ့ကြ၍ ဝတ်ချက်ရွာသူရွာသားများကလည်း ဆွမ်းဝတ်ချက်၍ လောင်းလှူခဲ့ကြသည်။ ဤသို့ များပြားသော သံဃာတို့ကို ဆွမ်းဟင်း၊ လုံလောက်အောင် ချက်ပြုတ်လောင်းလှူကြ၏။ ဝတ်ချက်ရွာသည် အနက်အဓိပ္ပာယ်ဖြင့် မှည့်ခေါ်သော အနွတ္ထသညာ ဝတ်ချက်ရွာဖြစ်ပေသည်ဟု မှတ်တမ်းတွင် တွေ့ရပါသည်။

(ကျမ်းကိုး၊ အနောက်ပရက္ကမ ဆရာတော်၏ ဖြစ်စဉ်နှင့် ကျင့်စဉ်များ စာ ၁၂၄)

လေ့သင်းမင်းကျောင်းဟု အချို့က ဆိုကြသည်။ ယခုအခါ စစ်ကိုင်းတောင်ရိုးရှိ ဝတ်ချက်ရွာ၏ မြောက်ဘက်ရှိ ကျောင်းဖြစ်၏။ ရောဝတီမြစ်ကမ်း ပတ္တမြားစေတီ စောင်းတန်းအခြေ၌တည်ရှိ၏။ ထိုရွာဇာတိ လေ့သင်း အတွင်းဝန်မင်းက ဆောက်လုပ်လှူဒါန်းသောကြောင့် လေ့သင်းမင်းကျောင်းဟုလည်း ခေါ်ဆိုကြခြင်း ဖြစ်ပါသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယဦးဌေးလှိုင်က ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ စာအုပ်ကြီးတွင် ဖော်ပြခဲ့ပါသည်။ စာ ၃၃၂ ။)

၁၈၅၃ ဆရာတော်ကြီးသည် စစ်ကိုင်းမြို့မြောက်ဘက် သာစည် ဘုဇင်ပင်ရွာ၌ အေဒီ ၁၈၅၃ (၁၂၁၅ ခုနှစ်၊ နတ်တော်လဆန်း ၂ရက်၊ သောကြာနေ့ ည သုံးချက်တီးသောအချိန် အဖ ဦးကာလီ၊ အမိ ဒေါ်မယ်ညွှင်း တို့မှဖွားမြင်သည်။ ငယ်မည်မှာ မောင်သာဆိုင်ဖြစ်၏။ ရှင်သာမဏေ ဖြစ်သောအခါ ရှင်သောမဟုတွင်၏။ ဘုဇင်ပင်ရွာ ဘောဂတောရကျောင်း ဆရာတော်ထံတွင် ပညာသင်ခဲ့၏။ မငြိမ်းအောင်၊ မငြိမ်းတုတ်ဟူ၍ အစ်မနှစ်ဦးရှိသေး၏။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၃၃၊ မေလ၊ စာ - ၃၃၂ )

## ဖိနပ်တစ်ပေကျော်

ဆရာတော်ကြီးသည် ကြန်အင်လက္ခဏာ ခန့်ညားထွားကြိုင်း၏ဟု မျက်မြင်ပုဂ္ဂိုလ်များကဆိုကြပါ၏။ ဆရာတော်စီးသော ဖိနပ်မှာ ၁ ပေ ကျော်ရှိ၏ဟုသိရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ - ၃၃၂ )



**ဉာဏ်ကောင်းပုံ အံ့ဖွယ်**

ရှင်သောမသည် ဉာဏ်ထက်မြက်လှ၏ဟုသိရပါသည်။ တစ်ခဏ အတွင်းမှာပင်လျှင် ပေတစ်အင်္ဂါကို အလွတ်ရအောင် ကျက်နိုင်၏ဟုဆိုပါ သည်။ ပေတစ်အင်္ဂါမှာ ၁၂ ရွက်ရှိ၏။ ရပြီးနောက်လည်း ဘယ်အခါမှ မမေ့ဟု ဆိုပါသည်။

၁၉၂၆ ငယ်စဉ်က ကျက်ထားသောစာများကို ခန္ဓာဝန်ချခါနီး သက်တော် ၇၃ နှစ် အရွယ်ရောက်သည့်တိုင်အောင် အလွတ်ရွတ်ပြနိုင်သေးသည်ဟု အံ့ဖွယ်သိရှိရပါသည်။

၁၈၇၁ ရှင်ဝါ တစ်ဝါအရ ၁၇ နှစ်သားအရွယ်ရောက်သောအခါ ရှင်သာမဏေဘဝမှ လူထွက်ခဲ့ကြောင်းသိရပါသည်။ အကြောင်းအရင်းမှာ ဖခင်ကြီး ကွယ်လွန်သဖြင့် မိခင်အိုကြီးကို ပြုစုလုပ်ကျွေးမည့်သူ မရှိသောကြောင့်ဟုဆိုပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း ၃၃၂)

**ဝိနည်းငါးကျမ်း အာဂုံရွတ်၍ ညစဉ် ဘုရားရှိခိုး**

၁၈၇၃ အသက် ၂၀ ရွယ်ရောက်သောအခါ ရဟန်းပြုခွင့်ရသဖြင့် ရဟန်းဘောင်သို့ တက်ခဲ့ပါ သေး၏။ ထိုနှစ်သည် အေဒီ ၁၈၇၃ (၁၂၃၅ ခုနှစ်) ဖြစ်၏။

၁၈၇၄ ရဟန်းဝါ တစ်ဝါအရတွင် မန္တလေးမြို့ ရွှေယင်းမာတိုက်၊ ပေါင်းလဲတိုက်များမှာ စာသင်ကြားခဲ့၏။

၁၈၇၅ ၂ ဝါအရတွင် မိခင်ကြီးထံ ပြန်ကြွလာပြီး တစ်ဝါတွင်းလုံး မိခင်ကြီးကိုပြုစု၏။ ထိုနှစ်မှာပင် ဝိနယဘောဂကျမ်းကိုလည်း ထူးထူးခြားခြား ပြုစုတော်မူ၏။ ထိုစဉ်က သက်တော် ၁၇ နှစ်ရှိပြီဟုသိရပါသည်။

၁၈၇၇ ရဟန်း ၄ ဝါအရတွင် မန္တလေး လေးပြင်လေးရပ်ရှိ ဆရာတော်ကြီးများထံတွင် စာလိုက် စာနာ ပညာရှာခဲ့၏။

၁၈၇၈ **ရဟန်း ၅ ဝါအရတွင် ဝိနည်း ၅ ကျမ်း ပါဠိတော်ကို အာဂုံဆောင်တော်မူ၏။ အာဂုံရွတ်၍ ညစဉ် ဘုရားရှိခိုး၏။ ဤကား ငယ်ဘဝဖြစ်ပါသည်။**

(ကျမ်းကိုး။ ယင်းကျမ်း ၃၃၃)

**အဘယ်ကြောင့် လှေသင်းမင်းကျောင်း**

၁၈၈၂ အေဒီ ၁၈၈၂ (သက္ကရာဇ် ၁၂၄၄ ခု) သို့ ရောက်သောအခါ အရှင်သောမသည် လှေသင်း အတွင်းဝန်မင်းကျောင်းတွင် တိုက်အုပ်အဖြစ် ထမ်းဆောင်ခဲ့၏။ လှေသင်း အတွင်းဝန်သည် ဝတ်ချက်ရွာတွင် ကျောင်းတိုက်ကြီး ဆောက်လုပ်ခဲ့၏။ ဗိမာန်ဘုံသာ ကျောင်းတိုက်ကြီးဖြစ်၏။ ကျောင်းတိုက်ကြီးကို မြင်းဝန်ဆရာတော်အား လှူဒါန်းခဲ့၏။ ထိုအခါ အရှင်သောမသည် တိုက်အုပ်ဖြစ်ခဲ့၏။ ဤသို့ သိရပါသည်။

၁၈၈၇ အေဒီ ၁၈၈၇ ခု (၁၂၄၉ ခုနှစ်)တွင် မြင်းဝန်ဆရာတော်ကြီး ပျံလွန်တော်မူ၏။ ထိုအခါ အရှင်သောမသည် ကျောင်းထိုင်ဆရာတော် ဖြစ်လာသည်။ ထိုသို့ မဖြစ်ခင် က အရှင်သောမသည် လှေသင်းဗိုလ်မင်းဦးစံလှ ဆောက်လုပ်သော ကျောင်းတွင်



သီတင်းသုံးခဲ့ရသေး၏။ ထို့ကြောင့် ဗိုလ်ကျောင်းဆရာတော်ဟုလည်း ရှေးကခေါ်၏။ မြင်းဝန်ဆရာတော်ကြီး ပျံလွန်တော်မူသောအခါမှ ဦးသောမသည် ဗိမာန်ဘုံသာကျောင်းတိုက်ကြီးကိုဆက်ခံရ၏။ ထို့ကြောင့် လှေသင်းမင်းကျောင်း ဆရာတော်ဟု ခေါ်ဝေါ်ကြပြန်၏။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၃၄။)

၁၈၉၅ ဆရာတော်ကြီး၏ အဲ့ဖွယ်များမှာ စာပေလောကတွင် မှတ်တမ်းတင်ရပါမည်။ ဆရာတော် သက်တော် ၄၄ နှစ်အရွယ် အေဒီ ၁၈၉၅ (သက္ကရာဇ် ၁၂၅၇ ခုနှစ်) တွင် ဒူးပဆစ်ပေါ်၌ ပေရွက်တင်၍ ကညစ်ဖြင့် တစ်ကြိမ်ဖြင့် အပြီးသတ် အချောတင်ရေးတော်မူ၏။ စာအင်္ဂါ ၃၀ ရှိ၏ဟု မှတ်သားရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၃၅)

## အဘယ်ကြောင့် ဝတ်ချက်မင်းကျောင်း

အချို့ကလည်း ဝတ်ချက်မင်းကျောင်း ဆရာတော်ဟုလည်းခေါ်ကြ၏။ အချို့ကလည်း ဝါးချက်မင်းကျောင်းဆရာတော်ဟုခေါ်ကြ၏။ တစ်ပါးတည်းဖြစ်ပါ၏။

၁၉၂၇ လှေသင်းမင်းကျောင်း ဆရာတော်ကြီးသည် အေဒီ ၁၉၂၇ ဇန်နဝါရီ ၂၆၊ (၁၂၈၈ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၉ ရက်) ဗုဒ္ဓဟူးနေ့ ည ၁၀ နာရီ မိနစ် ၃၀ အချိန်၌ စုတိကမ္မဇရုပ် ချုပ်ငြိမ်းတော်မူသည်ဟုသိရပါသည်။ ဆရာတော်ကြီး၏ နောက်ဆုံးအမှာစကားမှာ -

**"တပည့်တို့ ဤနေ့မှစ၍ ခုနစ်ရက်မြောက်သော် ဗုဒ္ဓဟူးနေ့ ညကာလတွင် ဤဘဝ၏ အဆုံးစွန်သို့ရောက်တော့မည်။ ငါမရှိသည့်နောက် ငါဟောပြောကျင့်ကြံသော ပရိယတ်၊ ပဋိပတ်နှင့်စပ်၍ မှတ်သားဆည်းပူးလိုလျှင် ငါ့တပည့်ကြီး မဟာသစ်ဝင်ချောင် မစိုးရိမ်တောရဆရာကို ငါ့ကိုယ်စား အရာထား ဆည်းကပ်ရစ်ကြ"ဟု ကြိုတင်၍မိန့်မှာတော်မူခဲ့ကြောင်းသိရှိရပါသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း ၃၃၄)

## သစ်ဝင်ချောင်ဆရာတော် တပည့်ဖြစ်သူ

ထိုမိန့်မှာခဲ့သော မစိုးရိမ်ဆရာတော်မှာ ဦးသောမာဘိသိရီ ဖြစ်၏။ ထိုဆရာတော်သည်ပင်လျှင် နောက်ထပ် ၂ လ ကြာသောအခါကို ဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိပြုစုခဲ့ပေသည်။ ထိုဆရာတော်ကို စစ်ကိုင်း သစ်ဝင်ချောင် တောရဆရာတော်ဟု လူသိများပါ၏။ ပါဠိသက္ကတလည်း အလွန်တတ်လှ၏။

(ကျမ်းကိုး၊ စာမျက်နှာ ၁၄၀ ရှိသော လှေသင်းမင်းကျောင်း ဆရာတော်ကြီး၏ အတ္ထုပ္ပတ္တိ)

ထိုစစ်ကိုင်း သစ်ဝင်ချောင်ဆရာတော်မှာ ပထမ လယ်တီဆရာတော်ဘုရားကြီး ရှိတော်မူစဉ်အခါကပင်လျှင် လယ်တီဆရာတော်၏ ဆန္ဒအရ ပါဠိအဘိဓာန်ကြီးကို ဦးစီးပြုစုခဲ့ရသော ဆရာတော်ကြီးလည်းဖြစ်၏။ ထိုမျှသာမကသေး အထက်ပါ ဝတ်ချက်မင်းကျောင်းဆရာတော်ကြီး၏ အတွင်းနေ တပည့်ကြီးလည်းဖြစ်ခဲ့၏။ ကိုယ်စားတော်ဟုလည်းဆိုနိုင်ပါ၏။

(ကျမ်းကိုး၊ ထေရုပ္ပတ္တိကြီးကို ၁၂၈၉ ခုနှစ် ကဆုန်လက ပုံနှိပ်ခဲ့ပါ၏။ ထေရဝံသာစာရက္ခမပဒီပိကာ ကျမ်းကြီးဖြစ်၏။)



## မစိုးရိမ်ဆရာတော်ကြီး၏ ဆရာ

ဝတ်ချက်မင်းကျောင်းဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်သူတစ်ဦးမှာ မစိုးရိမ်ဆရာတော်ကြီး ဖြစ်၏။ မစိုးရိမ်ဆရာတော်ကြီးမှာ သက်တော်ရှည်ဆရာတော်ကြီးဖြစ်၏။ ထိုဆရာတော်ကြီး၏ မိန့်ကြားချက်အရ သိရှိရသည်မှာ -

> ဝတ်ချက်မင်းကျောင်းဆရာတော်ကြီး ပျံလွန်တော်မူသောအခါ လှေသင်းမင်းကျောင်းကြီးသည်လည်း လောင်မီးကျ၍သွားပါသည်။ တစ်ပြိုင်တည်းမှာပင် ဝတ်ချက်မင်းကျောင်းဆရာတော်နေခဲ့ဖူးသော တောရွာက ကျောင်းကလေးပါ တစ်ပြိုင်တည်း လောင်မီးကျသွားသည်ဟူ၍ သိရှိရခြင်းဖြစ်ပါသည်။

ထိုလှေသင်းမင်းကျောင်းဆရာတော်ကြီး၏ စရိုက်သဘာဝနှင့်တကွ ထူးခြားပုံ ထူးခြားနည်းများကို သိရှိရသည်မှာ ဆရာတော်ကြီး၏ တပည့်ရင်း စစ်ကိုင်းသစ်ဝင်ချောင် ဆရာတော်၏ကောင်းမှုကြောင့် ဖြစ်ပါသည်။ ထိုထူးခြားချက်များကို ထပ်မံဖော်ပြပါမည်။ အောက်တွင်ဖတ်ရှုပါ။

## တံမြက်စည်းလှည်းခြင်း အံ့ဖွယ်

မင်းကျောင်း ဆရာတော်ဘုရားကြီးသည် ကျောင်းဝင်းကြီး အတွင်း၌သာမက သံဃာများ ဆွမ်းခံကြွရာလမ်းတစ်လျှောက် ခရီးတစ်တိုင်ခန့်ရှိ ရွာဝင်ပေါက်အထိ နေ့တစ်ကြိမ် ညတစ်ကြိမ် လှည့်လည် တံမြက်လှည်းတော်မူ၏။ အခြားသူများ လှည်းပြီး၍ ဖြစ်စေ၊ အလိုအလျောက်ဖြစ်စေ အမှိုက်သရိုက် ရှင်းနေသော်လည်း လှည်းမြဲလှည်းတော်မူ၏။ "ကာယဝေယျာဝစ္စ၊ သေနာသနဝတ် ကုသိုလ်ဇော ဖြစ်သတဲ့ ဟုလည်း မိန့်တော်မူသည်။

## သောက်ရေခပ်ခြင်း အံ့ဖွယ်

သောက်ရေကိုလည်း ဧရာဝတီမြစ်သို့ ဆင်း၍ သံဃာများမနိုးမီ လောင်းထည့်ပြီး ဖြစ်၏။ တပည့်များက ဦးအောင် လောင်းထည့်ထားလျှင်လည်း ထိုရေများကို အိုးလိုက်ဘုရားလှူပြီး ထပ်၍ ခပ်ထည့်တော်မူသည်။

## ကနုတ်ပြုခြင်း အံ့ဖွယ်

ကုဋိ သုံးရေ ဆေးရေများကိုလည်း အမြဲပင်လောင်းထည့်သည်။ ကုဋိ၌ သံဃာ အများသုံးပြီးသော ကနုတ်များကိုလည်း ကိုယ်တော်တိုင် ဆေးကြော၍ ကနုတ်ကုန်လျှင်လည်း ကိုယ်တော်တိုင် ဝါးကိုခွဲစိတ်၍သပ်တော်မူ၏။

## ထင်းသယ်ခြင်း အံ့ဖွယ်

ဆရာတော်သည် ဧရာဝတီမြစ်တွင်း ရေချိုးဆင်းတိုင်း ထင်းများကို ကိုယ်တိုင်ဆယ်၍ ကမ်းနား၌ပုံထား၏။ လိုချင်သူယူ၍ ကျန်သမျှထင်းများကို ကျောင်းအရောက် ကိုယ်တိုင်ထမ်းသယ်၏။

ဆောင်းအခါ၌ ထိုထင်းများကို မီးဖို၍ ဘုရားလှူခြင်း၊ သံဃာများ ဆွမ်းခံလမ်းတစ်လျှောက် မီးဖိုခြင်း၊ ခွေးများ မီးလှုံရန်ပင် မီးဖိုပေးခြင်း ပြုတော်မူ၏။



## သဲသယ်ခြင်း အံ့ဖွယ်

ရောဝတီမြစ်တွင်းမှ သဲများကိုလည်း ကိုယ်တော်တိုင် ထမ်း၍ ကျောင်းဝင်းအပြည့် သဲခင်းတော်မူရာ လှည်းအစီး တစ်ထောင်ခန့်ရှိ၏။

## ယပ်ခတ်ခြင်း အံ့ဖွယ်

ကျောင်းအနီးအနားရှိ စေတီများတွင်လည်း စေတိယင်္ဂဏ ဝတ်များကို ပြုတော်မူသည်။ တံမြက်လှည်းရုံ၊ ရေလှူရုံမျှမက စေတီများတွင်လည်း ဆောင်းအခါတွင် ထင်းမီးဖို၍ လှူခြင်း၊ နွေအခါတွင် ရုပ်ပွားတော်ရှေ့၌ ယပ်လေခတ်၍ လှူခြင်းများလည်း ပြုတော်မူသည်မှာ ထူးခြားလှပေ၏။

## ရေအိုးထမ်းခြင်း အံ့ဖွယ်

အလွန်မြင့်စောက် ဝေးလံလှသော ပတ္တမြားစေတီတောင်ပေါ်သို့ ရေပြည့်အိုးထမ်းလျက် ရေလှူတော်မူ၏။ ရှည်လျားလှသော စောင်းတန်းကြီး၌လည်း အသွားအပြန် တံမြက်လှည်းတော်မူ၏။ ရောက်ဖူးသူတိုင်း သိပေလိမ့်မည်။ လူငယ် လူရွယ် လူသန် များပင်လျှင် လူချည်းကို အထောက်ထောက်နား၍ အမောဆို့အောင် တက်ရသော တောင်ဖြစ်သည်။

## ကနုတ် ကိုယ်တိုင်သပ်ခြင်း အံ့ဖွယ်

၁၈၉၈ ရံခါ ဒန်ပူတံ၊ ကနုတ်များကို ကုဋေကျော်အောင် ကိုယ်တော်တိုင် သပ်တော်မူ၏။ မိမိတိုက် အတွင်း သာမက အေဒီ ၁၈၉၈ (၁၂၅၉ ခုနှစ်)က မန္တလေးမြို့ပေါ်တွင် သံဃာအများဆုံး ၁၆၀၀ ရှိသော ဘုရားကြီးတိုက်အတွက် တစ်ပါးလျှင် ဒန်ပူတစ်ရာ စည်း တစ်စည်းကျစီ လှူတော်မူဖူးသည်။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၃၉-၃၄၀)

## တစ်ညလုံး တရားထိုင်ခြင်း အံ့ဖွယ်

ညသန်းခေါင်ကျော်လျှင် ကျောင်းမှတိတ်တဆိတ် ထွက်သွား၍ သုသာန် သို့မဟုတ် တောရမြောက်အောင် ဝေးကွာသော တစ်နေရာရာ၌ အရုဏ်တက်ပြီးမှသာ ပြန်ကြွလာ၏။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၄၁)

## အလှူပစ္စည်း အံ့ဖွယ်

အလှူအတန်းကြွရာ ပစ္စည်းသယ်ရန် တပည့်မပါ။ ကျောင်းသို့လာလှူ လိုက်လှူသမျှ ကိုလည်း အလှူခံပြီးလျှင် သည်အတိုင်းသာထားတော်မူ၏။ မည်သူ့ကိုမျှ သိမ်းဆည်း မခိုင်း။ လိုသောကိုရင် ဦးပဉ္ဇင်းများ လိုရာကောက်ယူသုံးစွဲကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၄၁)



## အိပ်ရာမရှိခြင်း အံ့ဖွယ်

ဆရာတော်မှာကား အမြဲတမ်း သက်နုံးသုံးထည်သာ (တိစီဝရိက်ဓုတင်) ဆောင်တော်မူ၏။ မျက်နှာသုတ်ပဝါမျှပင်မထားချေ။ တစ်ဆောင်တစ်ယောင် နေရာထိုင်ခင်းဟူ၍ သီးခြားမရှိ၊ အိပ်ရာမရှိ။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၄၁)

## သီလ အံ့ဖွယ်

ကျန်းမာရေးနှင့်စပ်၍ မည်သည့် ဆေးဝါးမျှ သိမ်းဆည်း သိုမှီးထားခြင်းမရှိ။ ရံခါ မကျန်းမာသည်ကိုပင်အသိမပေး။ တပည့်များသိ၍ ဆေးဝါးကပ်သောအခါ ဆေးအမယ်များကိုပါမေး၍ ရောဂါအတွက် မည်မျှပင် အကျိုးပြုသော ဆေးဖြစ်စေကာမူ မအပ်သောအမယ်ပါလျှင် ပစ်ပယ်တော်မူ၏။ တစ်ခါက သမားတော်ကြီး ဆရာသဲက တိရစ္ဆာန် သည်းခြေများ ပါဝင်သော ဆေးကို ဆက်ကပ်ရာ မအပ်၍ မှီဝဲတော်မမူ။ သီလကို ထိုမျှ အလေးမူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၄၂)

## အဖျင်းစကား မပြောခြင်း အံ့ဖွယ်

ဆရာတော်သည် အချင်းခပ်သိမ်း ကြည်သာရွှင်ပြသော မျက်နှာရှိ၏။ နှုတ်ချို၏။ စကားပြောလျှင် တရားနှင့် စပ်သည်ကိုသာပြော၏။ ရပ်စကား၊ ရွာစကား၊ မင်းစိုးရာဇာ ပြည်ရွာ အရေးအခင်း အဖျင်းစကား (တိရစ္ဆာန်စကား)မျိုးကို မည်သည့်အခါမျှ မပြော။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၄၂)

## အလောင်းကို ကိုယ်တိုင်ထမ်းခြင်း အံ့ဖွယ်

ဂိလာနဝတ်ကို ပြုရာ၌လည်း ဆရာတော်သည် ဘုရားရှင့်သားကြီး ပီသပါပေသည်။ တစ်ခါက ဦးတိလောက ခေါ်သော တပည့်စာသင်သား တစ်ပါး ကာလဝမ်းရောဂါ ဖြစ်ရာ ဆရာတော်ကိုယ်တိုင် သူနာပြုလုပ်တော်မူ၏။ ကျင်ကြီး ကျင်ငယ် အညစ်အကြေးများကို သုတ်သင်လျှော်ဖွပ်ပေး၏။ ဆေးဆရာ ဦးလူကလေးအား ခေါ်၍ ကုသစေရာမရ။ ညသန်းခေါင်ချိန် ပျံလွန်သွားရာ သံဃာများ တာဝန်မတက်စေရန် ကိုယ်တော်တိုင် အလောင်းကိုထမ်း၍ ဦးလူကလေးအား တွဲလျားကျသော ခြေထောက်များကို နောက်က မ,ကိုင်စေလျက် သုသာန်သို့ ညတွင်းချင်း ပို့တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၄၂)

## ကိုယ်တိုင် သူနာပြုခြင်း အံ့ဖွယ်

၁၈၉၈ အေဒီ ၁၈၉၈ ခု၊ (၁၂၅၉ ခုနှစ်)တွင် ဦးဒီပ(ခေါ်)တပည့်တစ်ပါး ဝမ်းရောဂါဖြစ်ရာ ကိုယ်တိုင် သူနာပြု၍ ပျံလွန်လျှင် တစ်ပါးတည်း အလောင်းကိုထမ်း၍ သင်္ဂြိုဟ်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း ၃၄၃)



၁၉၂၇ လှေသင်းမင်းကျောင်း ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၂၇ ခု၊ ဇန်နဝါရီ ၂၆ ရက်၊ (၁၂၈၈ ခုနှစ် ပြာသိုလပြည့်ကျော် ၉ ရက်) ဗုဒ္ဓဟူးနေ့ ည ၁၀ နာရီ မိနစ် ၃၀ အချိန်၌ စုတိကမ္မဇရုပ် ချုပ်ငြိမ်းတော်မူသည်။

ဆရာတော်၏ ထူးခြားချက်များကို ဖော်ပြရာတွင် ဆရာတော်ကြီးသည် လောကီ လောကုတ္တရာ နှစ်ဖြာသော ပဋိဝေဓသို့ ဆိုက်ရောက်တော်မူသည်ဟုသိရပါသည်။ ထူးခြားချက်ကို အောက်တွင်ကြည့်ပါ။

ပါဠိ အဋ္ဌကထာ ဋီကာလာ မည်မျှ လျှို့ဝှက်ခဲကပ်သော အဓိပ္ပာယ်မျိုးကို မဆို၊ အဖွင့် သံဝဏ္ဏနာ နိဿယစသည် မကြည့်ရဘဲ တွေ့ကာ မြင်ကာမျှဖြင့် ယထာဘူတကျအောင် ရှင်းပြတော်မူနိုင်၏။ ရှေးပညာရှိတို့ လျှို့ဝှက် သိပ်သည်းစွာ နည်းပရိယာယ်ဖြင့် စီရင်ခဲ့သော အရာများ၊ လျှို့ဝှက် ပညာရပ်များ (အင်း၊ လက်ဖွဲ့၊ မန္တန်စသည်)ကိုလည်း မြင်ကာမျှဖြင့် ဖြစ်ပေါ်ပုံ၊ သုံးစွဲပုံ၊ အကျိုးအာနိသင်များကိုပါ ထုတ်ဖော်ညွှန်ပြနိုင်၏။

လောက၌ ကြိုတင်ဖြစ်ပေါ်တတ်သော အတိတ်၊ နိမိတ်၊ အိပ်မက်၊ အလိုလိုပေါ်လာသော ဂဏန်းအက္ခရာ၊ ဂါထာ၊ တဘောင်၊ တော၊ တောင်၊ ရေ၊ မြေ၊ သင်္ကေတ၊ နိမိတ်မှန်သမျှ သိလို၍လျှောက်လျှင် ချက်ချင်းပင် အဖြေပေးတော်မူနိုင်၏။

ထိုမျှသာမဟုတ်။ စေတောပရိယ အဘိညာဉ်ခေါ် သူတစ်ပါးစိတ်ကူး အကြံအစည်များကိုလည်းကောင်း၊ ပြုလုပ်စီမံထားသော အရာများကိုလည်းကောင်း ဖြစ်ပျက်နေသောအရာများကိုလည်းကောင်း သိတော်မူသည်။ ထိုမှတစ်ပါး သေကြေပျက်စီးမည့် အရာများကိုလည်းကောင်း၊ တစ်စုံတစ်ဦး၏ ကွယ်လွန်သည့်နောက် ရောက်ရ လားရသည့် ဘဝဂတိများကိုလည်းကောင်း၊ ထိုးထွင်းသိမြင်တော်မူကြောင်း လောကိယ ပဋိဝေဓဆိုက်ပုံ အတိအလင်းပင် ဖော်ပြရေးသားထားသည်ကို ကြည်ညိုရ၏။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်က ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများတွင် မှတ်ချက်ပေးခဲ့ပါသည်။ စာ၊ ၃၄၄-၃၄၅၊)

ဤရွေ့ဤမျှ ထူးသော အံ့ဖွယ် ရဟန်းထူး ရဟန်းမြတ်များသည် ခေတ်သစ် မြန်မာ့သာသနာ့ သမိုင်းတွင် ပေါ်ပွင့်ခဲ့ကြောင်းသိရပါသည်။

လူ့ခန္ဓာကိုယ်မရှိဘဲ အပေါ်ခြုံထည် သင်္ကလပ်သင်္ကန်းတော်ကြီးသည်သာ
ကြွင်းကျန်တော်မူခဲ့သော အံ့ဖွယ်ထူးခြား

# မုဒုံမြို့ ဂျုံးဂျုံးကျတောရ ဆရာတော်ဘုရားကြီး

**အေဒီ ၁၈၅၃ - ၁၉၂၃ ( ၁၂၁၅ - ၁၂၈၅ )**





ဂျိုးဂျိုးကျဆရာတော်ဘုရားကြီး အကြောင်းအရာများမှာ ပြော၍မယုံနိုင်လောက်အောင် ဖြစ်ပေတော့သည်။

ထို့ကြောင့် ဆက်လက်စုံစမ်းရာ ထိုသက်န်းတော်နှင့်အတူ စာတစ်စောင်ပါ ဆရာတော်ကြီးကိုယ်တိုင် ရေးသားခဲ့ကြောင်းတွေ့ရှိရပါသည်။ ထိုလက်ရေးစာမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

"ဆရာသည် ဣရိယာပုတ်ပြောင်း၍ အသခ်တဓာတ် ပရမတ္ထဓမ္မ၊ ငြိမ်သော အရသာထူးကို ခံစားတော့သည်။ တပည့်သံဃာတို့နှင့်တကွ ဥပါသကာ ဥပါသိကာကြီးငယ် တပည့်တို့ ဤတရားလမ်းကို အားကိုးအားထားပြု၍ အာရုံရစ်ကြလေ၊ မှာတမ်းစာပေးခဲ့သည်။ မပူဆွေးရစ်ကြနှင့် စိတ်ကိုမြဲခိုင်ကြစေ" ဟူသော မှတ်တမ်းတော်စာရေးသားကာ၊ အပေါ်ခြုံထည်သင်္ကန်းသက်န်းတော်ကို ကျိန်းစက်နေသည့်ဟန် အဓိဋ္ဌာန်ဖန်ဆင်းတော်မူပြီး မိမိ၏ခန္ဓာကိုယ်ကို ကိုယ်တော်တိုင် သိမ်းဆည်းကြွသွားတော်မူသော အစဉ်ကို ရေးသားဖော်ပြပေအံ့ ဟူ၍ဆရာတော်ကြီး၏ တပည့်ရင်းဖြစ်သော အရှင်ဝိလာသမက မှတ်တမ်းတင်ဖော်ပြခဲ့ပါသည်။

(ကျမ်းကိုး၊ မွန်ပြည်နယ် မုဒုံမြို့ ဂျိုးဂျိုးကျ ဆရာတော်ဘုရားကြီး၏ 'ထေရုပ္ပတ္တိ' ကထာ ပထမအကြိမ် စာ၊ ၂၂)

ထို့ကြောင့် ထူးဆန်းအံ့ဩဖွယ်ရာ ကြည်ညိုဖွယ်ရာ ကောင်းလှသော ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကို လိုက်လံရှာကြံပြီးလျှက် ပြန်လည်ဖော်ပြရပါသည်။ အောက်တွင် ထပ်ဆင့် ဖတ်ရှုတော်မူကြပါ။

အလွန်အံ့ဖွယ်ကောင်းပါသည်။ ထိုအခါမှစ၍ ဂျိုးဂျိုးကျ ဆရာတော်ကြီး၏ သတင်းသည် မြန်မာထက်အောက်တစ်ခွင် ကျော်ကြားခဲ့သည်မှာ ယခုထက်တိုင်ပင် ဖြစ်ပါသည်။ ယခုအခါမှာ ယခင်က သင်္ကန်းတော်မရှိတော့ပါ။ ဒုတိယ ကမ္ဘာစစ်အတွင်း ဂျပန်ခေတ်က စစ်သားများ အဆောင်ကောင်းသည်ဟုဆိုကာ ဖြတ်ညှပ်ယူသွားကြကြောင်း တစ်ဆင့်စကားသိရပါသည်။ အချို့အဝက်သာ ယခုလက်ရှိဆရာတော်ထံတွင် ကျန်ခဲ့ကြောင်းသိရပါသည်။ ယခုအခါ ဂျိုးဂျိုးကျ တောရကျောင်းတိုက်ကြီးကို ပရိယတ္တိစာသင်တိုက်ကြီးအဖြစ်သို့ ပြောင်းလဲခဲ့ပါသည်။ ထိုသို့ ပြောင်းလဲစေခဲ့သော ဆရာတော်မှာ စတုတ္ထမြောက် ဂျိုးဂျိုးကျဆရာတော် ဦးကဝိန္ဒ ဖြစ်ကြောင်းသိရပါသည်။

၁၉၄၂ ခုနှစ်မှာ အေဒီ ၁၉၄၂ ၁၃၀၄ ခုနှစ် ဖြစ်သည်ဟုဆိုပါသည်။

၁၉၄၂ စာသင်တိုက်အဖြစ် ပြောင်းလဲစဉ်ကာလတွင် မြိုင်ကြီးငူဆရာတော်သည် စာသင်သားအဖြစ် ရောက်ရှိသွားကြောင်းသိရပါသည်။

(ကျမ်းကိုး၊ မြိုင်ကြီးငူဆရာတော်ကိုယ်တိုင် တွေ့ကြုံခဲ့ရပုံများကို ယွန်းစလင်းအမြဲတေ ပေါင်းချုပ်တွင် စာမျက်နှာ ၁၅-၁၆ ၌တွေ့ရှိရပါသည်။)

၁၉၁၈ အေဒီ ၁၉၁၈ ခု၊ အောက်တိုဘာ ၂၈၊ တနင်္လာနေ့ (၁၂၈၀ ပြည့်နှစ် သီတင်းကျွတ်လပြည့်ကျော် ၉ ရက်နေ့ညတွင် ဝိပဿနာလုပ်ငန်းအောင်သည်ကို အောက်ပါမှတ်တမ်းအရ သိရှိရကြောင်း မြိုင်ကြီးငူဆရာတော်က မှတ်တမ်းတင်ခဲ့ပါသည်။

(ကျမ်းကိုး၊ ဤသည်တို့မှာ မြိုင်ကြီးငူဆရာတော်၏ မှတ်တမ်းအရ ဖြစ်ပါသည်။)

အကျယ်မှတ်တမ်းကိုကား ဂျိုးဂျိုးကျ ဆရာတော်ကြီး၏ ဉာလက်ရုံးတစ်ဆူ ဖြစ်တော်မူသော တပည့်ကြီးများ၏ ကြိုးပမ်းမှုကြောင့် ဂျိုးဂျိုးကျတောရ ပထမဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကထာကို သိခွင့်ရရှိခဲ့ပါသည်။



ထိုစဉ်က ဆရာတော်ဘုရားကြီး၏ တပည့်ကြီး နှစ်ပါးကလည်း သက်တော်ထင်ရှား ရှိနေဆဲပင် မဟုတ်ပါလော။ မော်လမြိုင်မြို့ မောင်ငံရဲကျောင်းဆရာတော် ဦးဝါယမိန္ဒသည် ရဟန်းပြုသည်မှစ၍ ၇ ဝါ ရသည်တိုင်အောင်၊ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး၏ ခြေတော်ရင်း၌ ဥပနိဿယကို ခံယူပြီး နောက်ဆုံး ခန္ဓာသိမ်းသည့်ညအထိ တစ်ခန်းတည်းဝင်ပြုစောင့်ရှောက်ခဲ့သောတပည့်ကြီးတစ်ပါးဖြစ်သည်။

၎င်းအပြင် ထူးခြားသော ဆရာကောင်းတပည့် ဖြစ်သူ တပည့်ကြီးတစ်ပါးလည်း ရှိပါသေးသည်။ ထိုတပည့်ကြီးကား မုဒုံမြို့ ဂျုံးဂျုံးကျ တောရဆရာတော် ဦးကဝိန္ဒ ဖြစ်ပါသည်။ ထိုဦးကဝိန္ဒသည်ကား ကျောင်းသား သာမဏေဘဝမှ ပြီး ရဟန်း ၇ ဝါရသည်တိုင်အောင် ကျေးဇူးရှင် ဆရာတော်ဘုရား၏ ထံပါး၌ ဆည်းကပ်၍ တိုက်တာ၏ တိုက်အုပ်တာဝန်ကို ထမ်းဆောင်နေရဆဲကာလမှာပင် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ခန္ဓာသိမ်းသွားသည်။

၁၉၄၃ ဤဆရာတော် ဦးကဝိန္ဒသည်ပင်လျှင် အေဒီ ၁၉၄၃ (၁၃၀၄ ခုနှစ်)မှစပြီး ပဋိပတ္တိ တိုက်မှ ပရိယတ္တိစာသင်တိုက်အဖြစ်သို့ အသွင်ပြောင်းလိုက်လေသည်။

(ကျမ်းကိုး၊ ဆရာတော်နှစ်ပါးစလုံး သက်တော် (၈၃) နှစ်၊ ဝါတော် (၆၃) ဝါ ရကြကုန်ပြီးဖြစ်သည်။ ဤတပည့်ကြီးနှစ်ပါး မျက်ကွယ်မပြုမီ၊ ထေရုပ္ပတ္တိကထာဟောင်းများ၏မူကို မပျက်စေဘဲ ထုတ်ဝေရမည်၊ လိုအပ်ချက် မရှင်းသောအချက်များ ကို ဆရာတော်တို့က ဖြည့်စွက်ပေးမည် ဟူသော ဩဝါဒနှင့် ဂျုံးဂျုံးကျ နိကာယဝင်များ ဖြစ်ကြသော ဂျုံးဂျုံးကျတောရ တိုက်အုပ်ဘုန်းကြီး ဦးအဂ္ဂဝံသ (ဓမ္မာစရိယ)၊ မုဒုံမြို့ ကံကြီး ဓမ္မစေတီ ကျောင်းတိုက်ဘုန်းဘုန်းကြီး ဦးဣန္ဒာဝံသ (ဓမ္မာစရိယ)၊ စစ်ကိုင်းကျောင်း ဘုန်းကြီး ဦးဉာဏိက (ဓမ္မာစရိယ) နှင့် ဦးအေးမောင် ဦးဝိမလ (ဓမ္မာစရိယ)တို့က စိစစ် တည်းဖြတ်၍ ထုတ်ဝေရမည်' ဟု မိန့်တော်မူကြသည်။

ထိုဆရာတော်ဘုရားကြီး၏ တပည့်များဖြစ်ကြသော ဦးသောဘိတ၊ ဦးဥတ္တမ၊ ဦးကေတုမာလာ၊ မိကသစ်တောရ ဘုန်းတော်ကြီး၊ ရန်ကုန်မြို့မှ ဦးဝါယမ၊ မိတ္ထီလာ ဦးဩဘာသ၊ မြိုင်မြို့နယ်၊ ရေမျက်ရွာမှ စာဆိုတော်ကြီး ဦးထော်စသော စာပြု စာဆို ပုဂ္ဂိုလ်ကျော်တို့သည် ဂျုံးဂျုံးကျ ဆရာတော်ဘုရားကြီး၏ အကြောင်းအရာကို တတ်စွမ်းသမျှ ရေးသားထားခဲ့ကြောင်း သိရပါသည်။ ဦးသောဘိတဆိုလျှင် ၁၂၉၁ ခုနှစ်က တစ်ကြိမ်၊ ၁၂၉၃ ခုနှစ်က တစ်ကြိမ်၊ ပေါင်း ၂ ကြိမ် ရေးသား၍ စာအုပ်ထုတ်ထားသည်ကို တွေ့ရပါသည်။ ၎င်းပညာရှင်များ၏ စာဟောင်းများလည်း ယခုအခါ ပျောက်ကွယ်လုမတတ် ဖြစ်နေလေသည်။ အလိုရှိ၍ တော်တော်ကြီးရှာမှ တွေ့ရပါတော့သည်။)

ဤသို့သောအခြေအနေတွင် နယ်အသီးသီးမှပါရမီရှင်များကလည်း ဂျုံးဂျုံးကျ ဆရာတော်ဘုရား ကြီး၏ ပုတီးစိပ်နည်းကို ပေးပါဟုဆိုကြပါသည်။ အချို့ကလည်း ကျင့်စဉ်ကို ပေးပါဟု တောင်းခံကြပါသည်။ သို့အတွက် မြန်မာသန့်သန့် မဟာထေရုပ္ပတ္တိကို ပြုစုရန် ဖြစ်လာပါတော့သည်။ ထိုကြောင့် ယခုပြန်ပြော မည့်မူမှာ ဂျုံးဂျုံးကျဆရာတော်ဘုရားကြီး၏ လက်ရင်းကျကျ တပည့်များ၏ မူအတိုင်းဖြစ်သဖြင့် ယုံကြည်အားထားလောက်ပါသည်။

ထူးခြားဆန်းကြယ် အံ့ဖွယ်အတိဖြစ်သော ဂျုံးဂျုံးကျဆရာတော်ဘုရားကြီး၏ အကျဉ်းချုပ် အလွယ်သိအောင်တင်ပြရလျှင် -

၁၈၉၂ အေဒီ ၁၈၉၂ ဖေဖော်ဝါရီ ၂၇ ရက်၊ စနေနေ့ (၁၂၅၃ ခု၊ တပေါင်းလဆန်း ၁ ရက်နေ့) တွင် တောထွက်တော်မူကြောင်း သိရှိရပါသည်။

၁၉၁၈ ၎င်းအပြင် အေဒီ ၁၉၁၈ အောက်တိုဘာ ၁၉ ရက်၊ စနေနေ့ (၁၂၈၀ ပြည့်နှစ် သီတင်းကျွတ်လပြည့်ကျော် (၈)ရက်နေ့)တွင် အကြည်ဓာတ်တစ်မျိုး ချမ်းအေးလှစွာ သော တရားထူးကို ရရှိတော်မူကြောင်း သိရပါသည်။

၁၉၂၄ ၎င်းအပြင် အေဒီ ၁၉၂၄ ဇန်နဝါရီ ၂၁ ရက် တနင်္လာနေ့ (၁၂၈၅ ခု၊ ပြာသို



လပြည့်ကျော် (၁)ရက်နေ့)တွင် ထွက်ကြွတော်မူကြောင်း သိရှိရပါသည်။ အထက်ပါ အကြောင်းအရာတို့မှာ အကြမ်းဖျင်းအားဖြင့် သိသာအောင်တင်ပြရခြင်းဖြစ်ပါသည်။

ထိုသို့မဖြစ်စဖူး ထူးကဲလှသော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်၏ အကြောင်းများကို ယခုပြန်ပြောပါမည်။ အကျယ်ကို ဂျုံးဂျုံးကျ တောရ ပထမဆရာတော် ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကထာတွင် ကြည့်တော်မူကြပါ။ ယခု ဤစာရေးသူက ထိုရှေးမူအတိုင်း ထပ်ဆင့် ကြည်ညိုနိုင်အောင် ပြန်ပြောပါမည်။ နားဆင်တော်မူပါ။

## ရန်ကုန်သား ဇာတိ

ဆရာတော်ဘုရားကြီးကို ရန်ကုန်မြို့တော်ကြီး၌ ဖွားမြင်တော်မူ၏။ ဖွားမြင်ရန်အကြောင်း ဖန်လာပုံကား ဆရာတော်ဘုရားကြီး၏ ဘခမည်းတော် ဦးသာအေးနှင့် မယ်တော်ဒေါ်ဇာလီတို့သည် မိမိတို့၏ဇာတိရင်းနေရပ်အညာဒေသ ချောင်းဦးရွာမှမွေးဖက်များရှိရာ ရန်ကုန်မြို့သို့ ခေတ္တနေထိုင်ရန်နှင့် ရွှေတိဂုံစေတီတော်မြတ်ကို ဖူးမြော်ပူဇော်ရန် စုန်ဆင်းလာကြစဉ် ရန်ကုန်မြို့၌ ဖွားမြင်ခြင်းဖြစ်လေသည်။

၁၈၅၃ မယ်တော် ဒေါ်ဇာလီမှ အေဒီ ၁၈၅၃ (သက္ကရာဇ် ၁၂၁၅ ခု ပြာသိုလပြည့်ကျော် ၈ ရက်နေ့) ညဉ့် ၂ ချက်တီးကျော် သောကြာနေ့သို့အဝင် မွန်းတည့်မတ်သောအခါတွင် ဖွားမြင်သန့်စင်လေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၂၃ )

## ငယ်မည် မောင်ရွှေပြား

မယ်တော် ခမည်းတော်တို့က (မောင်ရွှေပြား)ဟု အမည်သညာ ပေးကြလေသည်။ နောင်သောအခါ ဂျုံးဂျုံးကျတောရ မဟာထေရ်မြတ်ကြီးဖြစ်လာပေတည်း။

ထိုသို့ မဟာထေရ်မြတ်လောင်းလျာကို ဖွားမြင်ပြီးနောက်၊ မယ်တော် ခမည်းတော်တို့သည် မောင်ရွှေပြား သူငယ် သင့်တင့်သော အရွယ်သို့ ရောက်သောအခါ အထက် အညာဒေသသို့ ဆန်တက်ပြီး ကနီမြို့ ဆင်စွယ်ရွာ၌ နေထိုင်ကြလေ၏။

၁၈၆၀ မောင်ရွှေပြား ခုနစ်နှစ် အရွယ်သို့ရောက်လတ်သော် ဆင်စွယ်ရွာကို ဂေါစရဂါမ် (ဆွမ်းခံရွာ)ပြု၍ တောကျောင်း ၌ သီတင်းသုံးနေတော်မူသော ဆင်စွယ်ရွာဆရာတော်ဘုရားကြီးထံအပ်နှံကြလေသည်။ ထိုသို့အပ်နှံရာ၌ ကျောင်းသားငါးလ သူတော်စင်အဖြစ် ငါးနှစ်တာမျှနေ၍ ပညာရင်နို့သောက်စို့ရလေသည်။ ( အေဒီ ၁၈၆၀ ခု၊ မြန်မာသက္ကရာဇ် ၁၂၂၂ ခုနှစ်)

၁၈၆၅ အသက် တစ်ဆယ့်နှစ်နှစ်သို့ ရောက်သောအခါ ဆင်စွယ်ရွာ ဆရာတော်ဘုရားကြီးသည် ရှင်သာမဏေအဖြစ်သို့ ချီးမြှောက်တော်မူသဖြင့် သာမဏေအဖြစ်သို့ ရောက်ပေသတည်း။ ( အေဒီ ၁၈၆၅ ခု၊ မြန်မာသက္ကရာဇ် ၁၂၂၇ ခုနှစ်)

ဘွဲ့တော် သျှင်သုဇာတဟု ပေးအပ်လေသတည်း။ ရှင်သုဇာတ သာမဏေသူမြတ်သည် ဆင်စွယ်ရွာ တောရကျောင်းဆရာတော်ဘုရားကြီး၏ အထံတော်တွင် ဘာသာသက္ကဋ ဘာဂ်လီနာဂရီ ဗာဟီ ကျမ်းဂန်များနှင့် အဘိဓာန် အလင်္ကာ ဂါထာဥပဒေ အနေအထား စကားဥပါယ် အသွယ်သွယ် အဖြာဖြာတို့ကို သာမဏေလေးဝါအတွင်း ကျနကျယ်ဝန်းစွာကျွမ်းကျင်လေသည်။

ရှင်သုဇာတ သာမဏေသူမြတ်သည် သာမဏေလေးဝါတိုင်တိုင် ဆင်စွယ်ရွာ တောရကျောင်း၌ သီတင်းသုံး၍ ထိုကျောင်းတိုက်ကြီးမှ ခွာထွက်ကြွတော်မူခဲ့၍ မန္တလေးမြို့ မိုးကောင်းကျောင်းတိုက်၌ ပထမစာတော်ချ ရာဇဂုရုဘွဲ့ခံ ဦးမာလာဆရာတော်ဘုရားကြီးအထံတော်၌ သင်အံဆည်းပူးပြန်နေသည်။



၁၈၇၁ သာမဏေဝါနှစ်ဝါ မန္တလေးမြို့၌ ရောက်ရသဖြင့် သာမဏေ ဝါခြောက်ဝါရ အသက် တစ်ဆယ့်ရှစ်နှစ်အရွယ်သို့ ရောက်သောအခါကပင်လျှင် ဂျုံးဂျုံးကျတောရ ဆရာတော် ဘုရားကြီးလောင်းလျာ သာမဏေ ရှင်သုဇာတသည် ပါဠိအဌကထာဋီကာတို့နှင့်တကွ သဒ္ဒါကရိုဋ် ကျမ်းဂန်တို့၌ တတ်ကျွမ်းလိမ္မာကျွမ်းကျင်ခြင်းသို့ ရောက်ရှိပေသည်။ (အေဒီ ၁၈၇၁ ခုနှစ်၊ မြန်မာ သက္ကရာဇ် ၁၂၃၃ ခုနှစ်)

## လျှို့ဝှက်သော အလေ့အထ

ဆရာတော်ဘုရားကြီး၏ အလေ့တော်မှာ လွန်စွာလျှို့ဝှက်တော်မူသော အလေ့တော်ရှိသည်။ တတ်ကျွမ်းသော ပညာရပ်များကိုလည်း စကားမစပ်လျှင်း အကြောင်းမရှိလျှင် ဘယ်သောအခါမှ ဖွင့်လှစ်မိန့်ဟ ပြောတော်မူလေ့မရှိပေ။ စကားစပ်မိ၍ အကြောင်းရှိသော် ဆိုင်ရာဆိုင်ရာ လွယ်ကူစွာ မိန့်တော်မူလေ့ရှိသည်။

၁၈၇၁ သာမဏေ ရှင်သုဇာတသည် စာသင်သားတို့အား စာချရုံမျှဖြင့် တင်းတိမ်မနေဘဲ ရာဇဂုရု ဆရာတော် ဘုရားကြီး၏ အထံတော်မှ လျှို့ဝှက်သိပ်သည်း နက်နဲဆန်းကြယ် လှစွာသော နည်းနာ နိဿယ၊ အထူးရစိမ့်သောငှာ ပိဋကတ်တော်များကို သင်ကြား ဆည်းပူးတော်မူပြန်သတည်း။ (အေဒီ ၁၈၇၁ ခုနှစ်၊ မြန်မာ ၁၂၃၃ ခုနှစ်)

## ရဟန်းဘဝ

၁၈၇၃ မန္တလေးမြို့၌ ရှင်ဝတ်နှင့်လေးဝါရရှိပြီးနောက် ရန်ကုန်မြို့သို့ ရဟန်းခံရန် ကြွလာတော်မူခဲ့ပြီး မြေပိုင်ရှင် ဒါယကာကိုလွန်း၊ ဒါယိကာမ မလှဆင်တို့၏ ပစ္စယာနုဂ္ဂဟကုသိုလ် တော်ကိုခံယူကာ၊ သာမဏေရှင်သုဇာတသည် အေဒီ ၁၈၇၃ ဇူလိုင်လ ၉ ရက်၊ (သက္ကရာဇ် ၁၂၃၅ ခု ဝါဆိုလဆန်း ၉ ရက် ကြာသပတေးနေ့) နံနက် စက်နာရီ ၉ နာရီ နှင့် မိနစ် ၃၀ အချိန်၊ ရန်ကုန်မြို့ အင်းယား ဆရာတော်ဘုရားကြီးကို ဉပဇ္ဈာယ် ပြုလျက် ရဟန်းအဖြစ်သို့ရောက်သတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၀ )

## ရန်ကုန်သား ဇာတိ

၁၈၇၄-၈၀ ဆရာတော်ဘုရားကြီးသည် အေဒီ ၁၈၇၄ ခု၊ (မြန်မာသက္ကရာဇ် ၁၂၃၆ ခုနှစ်) ရဟန်း (၁) ဝါ ရပြီးသည်က အစပြု၍ (၇) ဝါ ရသည့်တိုင်အောင် အေဒီ ၁၈၈၀ (၁၂၄၂ ခုနှစ် )အထိ မန္တလေး မြို့တော်၌ သာသနာ၀န်ကို ဆောင်လျက် သီတင်းသုံး နေထိုင်တော်မူလေသည်။ ထိုသည့်နောက် မန္တလေးမြို့မှ ထွက်ခွာတော်မူခဲ့ပြီး၊ ဦးသုဇာတသည် ချက်ကြွေရာဇာတိ ရန်ကုန်မြို့၌ သီတင်းသုံးတော် မူပြန်သည်။

## သီဟိုဠ်အရောက်

ဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့၌ သီတင်းသုံးနေတော်မူသောကာလ၌ အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသ၊ မဟာဗောဓိ၊ ဗုဒ္ဓဂယာစသော ဘုရားစေတီများနှင့် သီဟိုဠ်ကျွန်းရှိ ဘုရားစေတီ၊ စွယ်တော် စသည်တို့ကို ဖူးမြော်ပူဇော်ရန် ကြွရောက်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၁ )



## မော်လမြိုင်အရောက်

ဆရာတော်ဘုရားကြီးသည် မော်လမြိုင်သို့ကြွတော်မူ၍ ဦးဇိနတောင် ဝါဆိုကျောင်းတိုက်ကြီး၌ သီတင်းသုံးနေထိုင်တော်မူပြီးလျှင် တပည့်ရဟန်းသာမဏေတို့အား ပိဋကတ်တော်များကို သင်ကြားပို့ချတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၁ )

## ဦးသုဇာတမှ ဦးသုမနသို့ ဘွဲ့အမည်တော်အသစ်ပြောင်းခြင်းအထူးအဆန်း

ဝါဆိုကျောင်း ဆရာတော်ဘုရားကြီးက ဘွဲ့ဟောင်းဦးသုဇာတအမည်ကိုဖျောက်၍ ဦးသုမနဟူသော ဘွဲ့သစ်အတိုင်းထင်ရှားပြန်သည်။ ဝါဆိုကျောင်း၌ သီတင်းသုံးနေတော်မူစဉ် တြိဘေဒကျမ်းကို ရေးသားတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၂ )

## ကျမ်းပြုဆရာတော်

ဆရာတော်ဘုရားကြီးသည် မုဒုံမြို့သူ မြို့သားများနှင့် ကွမ်တုံရပ်ဒါယကာ ဒါယိကာမများ ဆောက်လုပ်လှူဒါန်း ကိုးကွယ်ရာဖြစ်သော ကွမ်တုံကျောင်းတိုက်ကြီး၌ ဝါကပ်သီတင်းသုံးတော်မူပြန်သည်။ ထိုသို့ သီတင်းသုံးနေတော်မူစဉ် ဒေသနာလမ်းမှန် စိတ္တဂဏ္ဌိလက္ခဏာကျမ်း၊ နိယျာနိကကျမ်း၊ သဂ္ဂမဂ္ဂကထာရှုဘွယ်နှင့် နိယျာနိကကျမ်း၊ ဥပနိဿယျ ဝိပဿနာ ကမ္မဋ္ဌာန်းကျမ်း၊ နိဿယကမ္မဋ္ဌာန်းကျမ်း၊ တရိဘေဒကပ္ပသာရကျမ်း၊ နမောဝိမုတ္တိရသ ရှုဘွယ်ကျမ်းစသောကျမ်းများကို ရေးသားစီရင်တော်မူသည်ဟုသိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၂ )

## တောထွက်

၁၈၉၂ ဆရာတော်ဘုရားကြီးသည် အေဒီ ၁၈၉၂ ဖေဖော်ဝါရီလ ၂၇ ရက်၊ စနေနေ့ (၁၂၅၃ ခု၊ တပေါင်းလဆန်း ၁ ရက်နေ့)၌ သပိတ်စသော အသုံးအဆောင်ကိုသော်မှ ဆောင်ယူခြင်းပြုတော်မမူဘဲ ပုတီးတစ်ကုံး သုံးထည်သောသင်္ကန်းနှင့် ကိုယ်တော်တစ်ပါးတည်းတောသို့ ကြွဝင်တော်မူပြီးလျှင် ယခု ဂျုံးဂျုံးကျ တောရကျောင်းတိုက်၏ တည်ရာ ဂျုံးဂျုံးကျ ရေတံခွန်စမ်းချောင်း၌ သီတင်းသုံး၍ တစ်ပတ် ကျော်ကျော်မျှကြာသောအခါ တပည့်ဒါယကာ ဒါယိကာမများ ကြားသိကြပြီး ဖက်မိုးကျောင်းမှစ၍ ကုသိုလ်ရှင်များက ဂျုံးဂျုံးကျတောရ တိုက်တာအရာမ်ကြီးကို တည်ထောင်ဖန်ဆင်း လှူဒါန်းကြလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၃ )

## ဂျုံးဂျုံးကျတောရ

ထက်သန်လှစွာသော စေတနာ သဒ္ဓါတရားဖြင့် ဆောက်လုပ်လှူဒါန်းရာ တောနက်ကြီးမျက်မည်းအလယ်၌ ဓမ္မာရုံတိုက်တာ နတ်လမ်းတန်ဆောင်း၊ ဇရပ်တန်းတို့ဖြင့် ကြီးကျယ်ခမ်းနားသော ဂျုံးဂျုံးကျတောရ ကျောင်းတိုက်ကြီး ဖြစ်ပေါ်လာခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၄)

## စမ်းချောင်းအရှေ့ တစ်ဝဂ္ဂ

ဆရာတော်ဘုရားကြီး၏ တရားအားထုတ်ရာ စမ်းချောင်း၏ အရှေ့ဘက်ကမ်း၌ မုခ်ဝ



ရှစ်မျက်နှာ တစ်ဝဂ္ဂုစေတီတော်ကြီးတစ်ဆူကို တည်ထားကိုးကွယ်ကြလေသည်။ ၎င်းစေတီတော်ကြီးသည် တံခွန်တိုင် (၂) ခု၊ အာရုံတန်ဆောင်း (၂)ခု၊ အရံ တံတိုင်းတို့ဖြင့် ကြည်ညိုဖွယ်ရာ ရှိဘိ၏။ စေတီတော်၏ အရံ တံတိုင်းအနီး၌ကား ပူဇော်ရန် ဗောဓိပင်ကို စိုက်ပျိုးထားတော်မူသည်။

၎င်းဂျိုးဂျိုးကျ တောရကျောင်းတိုက်ကြီးသည် မုဒုံမြို့မှ ကုလလေးတာအပြန် ငါးရာမက ( မုဒုံမြို့ ကံကြီးစေတီတော်မြတ်ကြီးမှ တစ်မိုင်သုံးဖာလုံမျှ) ကွာဝေးလှစွာသော အရှေ့မျက်နှာ အရပ် ဌာန၌ တည်ရှိလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၄ )

## ဂျိုးဂျိုးကျ ဆရာတော်ဟုခေါ်ဆိုကြ

ဂျိုးဂျိုးကျ ဟု ခေါ်ဝေါ်သမုတ်သည်မှာ ကျောင်းတိုက်၏ အရာမ်အတွင်းကိုဖြတ်၍ တသွင်သွင် စီးဆင်းနေသော စမ်းရေအလုံးတို့၏ တဂျိုးဂျိုးမြည်ဟီးလျက် စီးကျသော ရေတံခွန်အသံကို အစွဲပြု၍ 'ဂျိုးဂျိုးကျ တောရကျောင်းတိုက်'ဟု ခေါ်ဝေါ်သမုတ်အပ်လေသည်။ ထိုအခါမှစ၍ ဂျိုးဂျိုးကျဆရာတော် ဘုရားကြီးဟူ၍ ထင်ရှားကျော်စောတော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၄ )

## ၃၂ နှစ် သီတင်းသုံး

ဆရာတော်ဘုရားကြီးသည် တောရစခန်း ဂျိုးဂျိုးကျ ဝိပဿနာရိပ်နန်းတွင် (၃၂)နှစ်တိုင် ကာလပတ်လုံး နောက်ဆုံး ခန္ဓာကိုယ်သိမ်းဆည်းသွားတော်မူသည်အထိ သီတင်းသုံးတော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၅ )

## ဆရာတော်ကြီး၏ အံ့ဖွယ် ကြည်ညိုဖွယ်ရာများ

ဝိပဿနာဓူရကို အထူးအားထုတ်တော်မူလိုသဖြင့် စာပေ သင်ကြားပို့ချခြင်းကို ဖြတ်တောက်၍ ဂိုဏ်းအပေါင်းအဖော်တို့မှကင်းပြီး ဧကစာရီတစ်ပါးတည်းကျင့်လိုခြင်း၊ အမှုသစ် အမှုကြီးငယ် ကိစ္စအဝဝ တို့ကို ပယ်တော်မူ၍ ခရီးသွားခြင်းကို ပြုတော်မမူဘဲ ယုတ်စွအဆုံး ဆွမ်းစားကွမ်းစားစသော ဒါယကာ များ ပင့်ဖိတ်ရာသို့ ကြွတော်မူလေ့မရှိချေ။ လောကီတန်ခိုးကို အလိုမရှိသဖြင့် လောကီမှုကို ပြုလေ့ ရှိတော်မမူခြင်း။ သက်သတ်လွတ်စားသည်ကိုလည်းကောင်း။ မစားသည်ကို လည်းကောင်း၊ မသိရအောင် စောင့်ရှောက်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၆ )

ဆရာတော်ဘုရားကြီးသည် အနင်းအနှိပ်ကို ခံတော်မမူခြင်း၊ ဝေဒနာရောက်သော်လည်း တပည့်များအားပြောလေ့မရှိခြင်း၊ ဘုရားရှင်၏နေရာ၊ ဆရာ၏ နေရာကို ကျနသေချာ ကြည်ညိုဖွယ်ရာ ပြင်ဆင်အပ်သော်လည်း ကိုယ်တိုင်မှာမူကား မွှေ့ခေါင်းအုံးနှင့် အခင်းတို့ကို သုံးဆောင်တော်မမူဘဲ၊ သရိုး နီးအုံးငယ်တစ်ခုနှင့် သားရေနွယ်တစ်ချပ်ကိုသာ သုံးဆောင်လေ့ရှိတော်မူသည်။ အမြဲအိပ်ရာ နေရာလည်း မရှိချေ။ ဘုရားဝတ်ဖြင့် ဆွမ်း ပန်း တံမြက် စသည်တို့ကို ကိုယ်တော်တိုင် ပြုတော်မူပြီး လပြည့်လကွယ် နေ့တို့၌ သံဃာ့ဥပုသ်ပြုရာ၌လည်း ကိုယ်တော်တိုင် ပါတိမောက်ပြတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၆)

ဆရာတော်ဘုရားကြီးသည် နေ့အခါ ဂျိုးဂျိုးကျ စမ်းချောင်း၏ အရှေ့ဘက်ကမ်း တရားအား ထုတ်ရာ၌ သီတင်းသုံး၍ ညအခါ သံဃာတော်များ သီတင်းသုံးရာ အနောက်ဘက်ကမ်း ဘုရားကျောင်း၌ သီတင်းသုံးတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၇ )



## ညအခါသီတင်းသုံးတော်မူပုံ အံ့ဩဖွယ်ရာ

မိမိသည်ကား အရှင်အာနန္ဒာအလားဘုရားရှင်၌ ပြုအပ်သော ဝတ်ကြီးဝတ်ငယ်တို့ကို ပြုလျက် သားရေနွယ်တစ်ချပ်၊ သရိုးနှီးအုံးငယ်တစ်ခုကိုဆောင်ကာ ခြေဆင်းသာ၍ ကျောမခင်းနိုင်။ ကျောခင်းသာ၍ ခြေမဆင်းနိုင်သော တံခါးပေါက်၌တစ်ပါးတည်း သီတင်းသုံးတော်မူသည်။ အထူးအားဖြင့် စကြံသွား၍သော်လည်းကောင်း၊ ထိုင်၍သော်လည်းကောင်း၊ ညဥ့်အဖို့ကို လွန်မြောက်စေသည်။ အလွန်အံ့ဖွယ်ကောင်းလှပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၈ )

## အိပ်သည်ကို မတွေ့ဖူး

ဆရာတော်ဘုရားကြီး ကျိန်းစက်ပျော်နေပါသည်ဟု တွေ့မြင်ရသောတပည့် မရှိလောက်အောင် ဇာဂရိယာနုယောဂ (နိုးကြားမှု၌ လုံ့လပြုခြင်း)ဂုဏ်နှင့် ပြည့်စုံလှပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၈ )

## ညဘက် ချောင်းကြခြင်း

ဇင်းဂုဏ်နှင့်စပ်၍ တပည့်ကိုရင်ကြီးနှစ်ပါးဆရာတော်ဘုရားကြီး ကျိန်းစက်သည် ကျိန်းစက်ခြင်း မရှိဟူ၍ အငြင်းပွားကြရာမှ ဆောင်းတွင်းကာလ ညဥ့်သန်းခေါင်ကျော် တစ်နာရီအချိန်လောက် ချောင်းမြောင်းကြည့်ရှုကြရာ ဆရာတော်ဘုရားကြီးက စင်္ကြံလျှောက်ရင်း 'ဟေ ဘယ်သူများလဲ ဘာကိစ္စလဲ'ဟု အမိန့်ရှိရာ 'တပည့်တော်လက္ခဏာတို့ပါ ရေချိုးမလို့ပါဘုရား'ဟု ယောင်ယောင်မှားမှားနှင့် လျှောက်ကြားမိသောကိုရင်ကြီးနှစ်ပါးသည် စမ်းချောင်းအနီးရှိ ရေတွင်းမှ ရေကိုင်ငင်ပြီး ရေလောင်းခဲ့ရဖူးသည်အထိ တပည့်များအငြင်းပွားလောက်အောင် ဇာဂရိယာနုယောဂဂုဏ် ပြည့်စုံစွာ ဝိပဿနာဘာဝနာလုပ်ငန်း၌ အားသွန်ခွန်စိုက်တော်မူသည်။

နံနက်သုံးနာရီထိုးလတ်သော် တပည့်များအား နိုးကြားစေရန် အသံပြုတော်မူသည်။ အလင်းရောက်၍ ဆွမ်းစားချိန် တုံးခေါက်လတ်သော် ဆွမ်းစားကျောင်းသို့ကြွတော်မူ၍ ဘုရားအား ဆွမ်းတော်ကပ်ခြင်းအမှုကိုပင် ကိုယ်တော်တိုင်ပြုတော်မူသည်။ ဤမျှအထိ ဗုဒ္ဓဂါရဝမှုကျင့်ဝတ်နှင့် ပြည့်စုံလှပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၈ )

## ဆွမ်းဘုဉ်းပေး၍ မလျော့

ထူးခြားချက်ကား မိမိ၏ ဆွမ်းစားသောနေရာကို တင်းတိမ်ဖြင့် ကာရံစေ၍ တစ်ပါးတည်းသာ ဘုဉ်းပေးတော်မူသည်။ သားငါးဘောဇဉ်ကို ပယ်ရှားမှုမပြုဘဲ အကပ်ပင်ခံသော်လည်း ဘုဉ်းပေး၍ လျော့သည်ကိုမတွေ့ရ။ အထူးသဖြင့် ထမင်းရည်တစ်ပန်းကန်လုံးနှင့် ဆားအနည်းငယ်ကား နေ့စဉ်မပြတ် သုံးဆောင်အပ်သော ဆရာတော်ဘုရားကြီး၏ အာဟာရပင်ဖြစ်သည်။

ဆရာတော်ဘုရားကြီးသည် အာဟာရကိစ္စပြုပြီး၍ တပည့်များအား ဆွမ်းစသည့်နှင့်စပ်သော ဩဝါဒအမှု ပြုပြီး နောက်၊ တရားကျင့်ရန် နေ့သန့်ရာ စမ်းချောင်း၏ အရှေ့ဘက်ကမ်းသို့ ကြွတော်မူ၏ ဆရာတော်ဘုရားကြီးသည် တရားအားထုတ်ရာ ကမ္မဋ္ဌာန်းကျောင်းငယ်၌သော်လည်းကောင်း၊ ကမ္မဋ္ဌာန်းကျောင်းအနီး အုတ်တိုက် တစ်ဝဂ္ဂူ၌သော်လည်းကောင်း သီတင်းသုံးတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၉ )

## တံမြက်စည်းလှည်းသောအခါမှာ ဖူးတွေ့နိုင်၏

အကြောင်းကိစ္စ တစ်စုံတစ်ရာရှိ၍ တပည့်များက ဖူးတွေ့လိုက်လျှင် ကမ္မဋ္ဌာန်းကျောင်းအနီး၌ အသံပြုလိုက်သောအခါ ကမ္မဋ္ဌာန်းကျောင်းငယ်တံခါးကိုဖွင့်၍ လိုရင်းကိစ္စပြီးစေရုံမျှ အတွေ့ခံတော်မူ



သည်။ အရာမ်တွင်း၌ တံမြက်လှည်းသောအခါ စေတီရင်ပြင်၌ တံမြက်လှည်းသောအခါ စသည်တို့၌ကား လွယ်ကူစွာ ဖူးတွေ့နိုင်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၉ )

## လူရှိသည်ဖြစ်စေ လူမရှိသည်ဖြစ်စေ တရားဟောခြင်း အံ့ဖွယ်

ဆရာတော်ဘုရားကြီးသည် ကမ္ဘဋ္ဌာန်းကျောင်းအနီး ဓမ္မာရုံငယ်၌လည်းကောင်း၊ ဦးထွန်းမောင် လှူဒါန်းသော ဓမ္မာရုံဇရပ်၌လည်းကောင်း၊ နေ့စဉ် နံနက်(၈)နာရီကျော်လတ်သော်၊ လူပရိသတ်ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ သီလတရား ချီးမြှင့်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၃၉ )

## တရားနာသူကို မတွေ့ရ

တစ်ခါတစ်ရံ အကြောင်းကိစ္စကြုံလတ်၍ သီလတရား ချီးမြှင့်ပြီးမှ ရောက်လာသော ဒါယကာတို့ကို 'အခုပဲ သီလတရားနာယူပြီးလို့ပြန်သွားကြကုန်ပြီ'ဟု မိန့်တော်မူရာ မည်သူ့ကိုမျှ မတွေ့လိုက်ရသော ဒါယကာများမှာ 'ဘယ်သူတွေ သီလယူ၍ ဘယ်ကိုပြန်သွားကြပါလိမ့်'ဟု ဇဝေဇဝါဖြစ်ခဲ့ရသည်။ လေးနက်သော အဓိပ္ပါယ်ကိုကားမသိခဲ့ကြပေ။ အလွန်အံ့ဖွယ်ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၄၀)

## ကြာပင်နှင့် ကြာအောက်က ဖား အလကား

ဆရာတော်ဘုရားကြီးသည် တပည့်တို့အား 'ကြာပင်အောက်မှာ နေတဲ့ဖားဟာ ကြာရဲ့ ဝတ်ရည်ဝတ်မှုံ ဝတ်ဆံများကို မစားသုံးတတ်ဘူး၊ အဝေးမှာလာတဲ့ ပျားပိတုန်းများသာ စားသုံးကြရတယ် တပည့်' စသည်ဖြင့် မကြာမကြာမိန့်ဆိုတော်မူသည်။

နေ့ဆွမ်းဘုဉ်းပေးရန် တုံးခေါက်သောအခါ တစ်ကြိမ်ပြန်ကြွတော်မူပြီး ဆွမ်းဘုဉ်းပေးခြင်း၊ ဩဝါဒပေးခြင်း တရားဓမ္မချီးမြှင့်သောကိစ္စများ ပြီးလတ်သော် တရားကျင့်ရာ အရှေ့ဘက်ကမ်းသို့သာ ကြွတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၄၀ )

## နေ့စဉ်လုပ်ဆောင်ချက်များအံ့ဖွယ်

ညနေ (၄) နာရီအချိန်တစ်ကြိမ် သီလတရားချီးမြှင့်တော်မူ၏။ တံမြက်လှည်းခြင်း စသော စေတိယင်္ဂဏဝတ်၊ သေနာသနဝတ်တို့ကို နေ့စဉ်အချိန်မှန်မှန် ပြုကျင့်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၄၀ )

## ကိုယ်တိုင် သက်န်းလျှော်

ရေချိုးခြင်း ဆောင်ယူထားသော တိစီဝရိက် အဓိဋ္ဌာန်သင်္ကန်းတော်ကို လျှော်ဖွပ်ခြင်းစသော အမှုများကိုလည်း ကိုယ်တော်တိုင်ပြုတော်မူ၏။

ဆရာတော်ဘုရားကြီးသည် နေဝင်ရီတရောအချိန် ရောက်သောအခါ ကိုယ်တော်တစ်ပါးတည်း အားထုတ်ရာ အရှေ့ဘက်ကမ်းမှ ညဥ့်ယံ သီတင်းသုံးရာ အနောက်ဘက်ကမ်း ဘုရားကျောင်းသို့ ပြန်ကြွတော်မူပြီး ဘုရား၌ ပူဇော်အပ်သော ဝတ်များ၊ တရား၌ ပူဇော်အပ်သောဝတ်များ၊ သံဃာတော်၌ ပြုအပ်ပူဇော်အပ်သော ဝတ်များတို့ကို ကိုယ်တော်တိုင် နေ့စဉ်မပြတ် ပြုကျင့်တော်မူသည်။

ရောက်လာသော တပည့်ရဟန်း သာမဏေ ကပ္ပိယ ကာရကတို့အား သမထဝိပဿနာ ဘာဝနာလုပ်ငန်းနှင့် ဆိုင်ရာ တရားဓမ္မ ဩဝါဒပေးမှုကို ပြုတော်မူ၏။



ထက်အောက် ပိတ်ဖြူဝတ်စင်ကိုဝတ်ပြီး ဥပုသ်ရက်ရှည်စောင့်သုံးနေကြသော ဥပသကာ ယောဂီယောကျ်ားများအား ကိုယ်တိုင်သော်လည်းကောင်း၊ တပည့်ရဟန်းတော်များအား လွှဲအပ်၍သော်လည်းကောင်း တရားပြသအားထုတ်စေတော်မူ၏။ ဥပသိကာ ယောဂီမများအား တပည့် ဥပသကာတစ်ယောက်အား လွှဲအပ်၍ပြသအားထုတ်စေတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၄၀ - ၄၁ )

## ဆရာတော်ကြီး ပေးသနားသော အရေးကြီးသည့် ကျင့်စဉ်များ

တရားပွဲများမှ ဘာဝနာ လုပ်ငန်းကျင့်စဉ် စခန်းအားဖြင့် ဆရာတော်ဘုရားကြီးသည် ခေတ်ကာလနှင့်လျော်ညီစွာ လောကုတ်လောကီနှစ်လီသောအကျိုးကို ပြီးစေနိုင်သော သမထ ဝိပဿနာကျင့်စဉ်ကို ပေးသနားတော်မူသည်။

ဤနေရာ၌ သိသာရုံအမြွက်မျှ တင်ပြရသော် တရားကျင့်သောယောဂီသည် တရားကို မမှတ်သားမီ ရှေ့အဖို့၌ ဘုရား တရား သံဃာ ဆရာ မိဘ ဟူသော အနန္တဂုဏ်ရှင်၊ ငါးပါးတို့၌ ပြုမှားမိသော ပြစ်မှုများကို တောင်းပန်ခြင်း၊ အန္တရာယ်ခပ်သိမ်း ကင်းငြိမ်းစေကာမူ ဆန္ဒပြု၍ ကာကွယ်မှုကိုပြုခြင်း၊ အတ္တသန္နိယျာတန (မိမိကိုယ်ကို စွန့်လွှတ်လှူဒါန်းခြင်း)စသော သရဏဂုံ ဆောက်တည်နည်းတို့ဖြင့် သရဏဂုံဆောက်တည်ခြင်း၊ ကမ္မဋ္ဌာန်းတောင်းခြင်းဟူသော ပုဗ္ဗဘာဂပရိကမ်ကို ပြုရလေသည်။ ထိုအခါ ဆရာတော်ဘုရားကြီးသည် ရှုမှတ်နည်း အာရုံယူနည်းကို သင်ကြားပြသတော်မူ၏။

**(၁) ဗုဒ္ဓ သရဏံ ဂစ္ဆာမိ (၂) ဓမ္မံ သရဏံ ဂစ္ဆာမိ (၃) သံဃံ သရဏံ ဂစ္ဆာမိ (၄) အနိစ္စ (၅) ဒုက္ခ (၆) အနတ္တ (၇) အာနာ (၈) ပါန (၉) နိဗ္ဗာန် ဤကိုးဌာန အာရုံကိုးချက်ကို ရှုမှတ်စေတော်မူ၏။**

**၎င်းကိုးပါးကို တပည့်များက 'ပုတီးကိုးပတ်စိတ်နည်း'ဟု သိမှတ်ခေါ်ဝေါ်ကြလေသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၄၂ )

နုနယ်သော အချို့ယောဂီများသည် ပုတီးဖြင့် ကိုးပတ်စိတ်ယူကြသူလည်းရှိ၏။ တပည့်တော်၏ ပခုံးထက်၌ တည်ပါစေဟု စိတ်ဖြင့်ဆောက်တည်ပြီး မျက်နှာသစ်ပါ။ နောက်တစ်ဖန် ဘုရား တရား သံဃာ ရတနာသုံးပါး၏ ဂုဏ်တော်ကျေးဇူးတော်များသည် တပည့်တော်၏ နှလုံးအိမ်၌တည်ပါစေဟု ဆောက်တည်လိုက်ပါ။

ထိုသို့ ဆောက်တည်ပြီးသူသည် ထိုထိုအမှုကိစ္စကြီးငယ်ကို ဆောင်ရွက်နေစဉ် မိမိ၏ သရဏဂုံဆောက်တည်ထားသူ သရဏံဂုံတည်သူအဖြစ်ကို အောက်မေ့ဆင်ခြင်သတိရပါဟု ဆရာတော်ကြီးက မှာကြားခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၄၃ )

## သရဏဂုံ ကိုယ်လုံခြုံ အကုန်သိဒ္ဓိပေါက်

မကောင်းသောအမှုကိစ္စကို ပြောဆိုပြုလုပ်ရတော့မည်ဆိုလျှင် မိမိ၏သရဏဂုံ ဆောက်တည်ထားသူအဖြစ်ကို သတိရဆင်ခြင်၍ မကောင်းမှုမှာရှောင်ကြဉ်လိုက်ပါ။ ကောင်းသော အမှုကိစ္စကို ပြောဆိုပြုလုပ်ရတော့မည်ဆိုလျှင် မိမိ၏သရဏဂုံဆောက်တည်ထားသူအဖြစ်ကို သတိရဆင်ခြင်၍ ရဲရင့်စွာ မကြောက်မရွံ့ပြောဆိုပြုလုပ်အားထုတ်ပါ။ ထိုကဲ့သို့ ကြိုးစားအားထုတ်ပါများလျှင် ထိုသူသည် သရဏဂုံတည်သူ ဖြစ်လာလိမ့်မည်။

ဥပမာ အကြောင်းအားလျော်စွာ တစ်ကြိမ်တစ်ခါ အရက်သောက်မိသောသူသည် အရက်သမားမဖြစ်နိုင်ဘဲ နေ့စဉ်လောကမှာ အရက်သမားဖြစ်သကဲ့သို့ ယစ်မူးနေသူသည်သာလျှင် လောကမှာ အရက်သမားဖြစ်သကဲ့သို့ ဂုဏ်တော်များကို မပြတ်ဆောက်တည်ပါများလျှင် သရဏဂုံတည်သူ ဖြစ်လာလိမ့်မည်။



တစ်ကြိမ်တစ်ခါဆောက်တည်ရုံမျှဖြင့် သရဏဂုံ တည်သူဖြစ်ဖို့ရန်ခဲယဉ်းလှလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၄ )

ဘုရား တရား သံဃာ ရတနာသုံးပါးတို့၏ ဂုဏ်တော်သည် အနန္တဖြစ်သကဲ့သို့ သရဏဂုံတည်သူ၏ အကျိုးသည်လည်း အနန္တပင်ဖြစ်တော့သည်။

လောကမှာ အဝိဇ္ဇာဏက ဗဟိဒ္ဓဝတ္ထုဖြစ်သည့် ရွှေပြား ငွေပြားပေါ်တွင် အရဟံ စသော ဂုဏ်တော်၊ နှုတ်ကပါဠိတော်များရေးပြီး လိုအပ်သူ၏ နံသွင်း၍ ဆောင်စေအပ်သော လက်ဖွဲ့စသည် တို့သည်ပင် အထိုက်အလျောက် အကျိုးပေးသေးလျှင် သဝိဇ္ဇာဏက အဇ္ဈတ္တိက မိမိ၏ရုပ်နာမ်ထဲ၌ ဂုဏ်တော်များကို ဆောက်တည်ထားလျှင် အကျိုးပေးမှုကား အဘယ်ဆိုဖွယ်ရာ ရှိပါအံ့နည်း စသည်ဖြင့် မပြတ် ဟောကြားတော်မူလေ့ရှိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၅ )

## ရှင်ချောင် သေကြပ်

**အရှင်ကြပ်လျှင်၊ အသေချောင်၊ အရှင်ချောင်လျှင်၊ အသေကြပ်၊ အရေးကြီး၍၊ သွေးနီးရှာ၊ ကိုယ်မှာသာ၍ခက်၊ အရေးတစုံ၊ ကိုယ်၌ကြုံ၊ သရဏဂုံဆည်း၍ဖက်-ဟူ၍လည်းဟောပြော လေ့ရှိ၏။**

**တိသရဏဂုံ၊ လုံးစုံလက္ခဏ၊ မဂ္ဂါကိုယ်ကြပ်၊ အမြဲကပ်သူ၊ နိဗ္ဗာလက်ရှိ၊ မှတ်ကုန်ဘိ- ဟူ၍လည်း ဟောပြောလေ့ရှိ၏။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၅ )

ဤသို့သော မှတ်သားစရာ နိဿရည်းတို့ဖြင့် လောကုတ္တရာ သရဏဂုံတည်သူသည် ဖိုလ်လေးပါး နှင့် နိဗ္ဗာန်ဟူသောအကျိုးကို ရရှိခံစားရမည်ဖြစ်ပြီး လောကီသရဏဂုံ တည်သူသည် ချမ်းသာကြီးခြင်း၊ ခွန်အားကြီးခြင်း၊ အဆင်းလှခြင်း၊ အစိုးရခြင်း၊ အသက်ရှည်ခြင်း ဟူသော အကျိုးငါးပါးနှင့်မကောင်းသော အလိုမရှိအပ်သော အကျိုးမဲ့ကို ဖြစ်စေသော ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ ( အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့အထိ) တို့နှင့် မကြားမမြင် မတွေ့ကြုံ မဆုံစည်းရဘဲ၊ ကောင်းမြတ်အလို ရှိအပ် နှစ်လိုအပ်သော ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံတို့ကို မြင်ကြား တွေ့ထိ ခံစားရခြင်း ဟူသော အကျိုးငါးပါး၊ ပေါင်း (၁၀) ပါးသော အကျိုးတို့ကို ရရှိခံစားရမည် စသည်ဖြင့် ဟောကြားမှတ် သားစေတော်မူသည်။

ဆရာတော်ဘုရားကြီးသည် အထက်ဖော်ပြပါအတိုင်း သရဏဂုံနှင့် စပ်လျဉ်း၍များလှစွာသော ကဗျာလင်္ကာ မှတ်သားစရာ နိဿရည်းတို့ဖြင့် ဟောကြားတော်မူပြီးနောက် အနိစ္စ ဒုက္ခ အနတ္တ ဟူသော လက္ခဏာယဉ်သုံးပါးနှင့်စပ်၍ ရှုမှတ် ပွားများပုံများကို ဟောကြားတော်မူခဲ့၏။

## ဆရာတော်ကြီး သင်ကြားခဲ့သော ကျင့်စဉ်များ

ဤသို့ ခန္ဓာငါးပါး၊ ရုပ်နာမ်နှစ်ပါး၊ သင်္ခါရ တရားတို့၏အပေါ်၌ အနိစ္စ ဟူ၍လည်းကောင်း၊ ဒုက္ခဟူ၍လည်းကောင်း၊ အနတ္တဟူ၍လည်းကောင်း၊ အဖန်ဖန်အထပ်ထပ် သုံးသပ်ဆင်ခြင် ရှုမှတ်ပွားများ ပြီးနောက် - အာနပါန - ထွက်လေ၊ ဝင်လေကိုရှုမှတ်စေသည်။

ထိုသို့ အာနပါန - ထွက်လေ၊ ဝင်လေကို တတ်နိုင်သရွေ့ ရှုမှတ်ပြီးနောက် (ဝါ) ရှုမှတ်ပြီးသော ယောဂီသည် နိဗ္ဗာန်၏ဝိရာဂ(ရာဂကင်းခြင်း)စသော ဂုဏ်များကိုအထပ်ထပ် ရှုမှတ်ပွားများစေတော်မူသည်။

တစ်ခုချင်းအားဖြင့်သာ ရှုမှတ်ပွားများစေသည် မဟုတ်ဘဲ၊

ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ မြတ်စွာဘုရားကို ကိုးကွယ်ဆည်းကပ်ပါ၏။ ကိုးကွယ်ဆည်းကပ်



ခြင်းသို့ ရောက်သော ဤရုပ်နာမ် သင်္ခါရတရားသည် မမြဲခြင်း အနိစ္စ၊ ဆင်းရဲခြင်း - ဒုက္ခ၊ အလိုသို့မလိုက် အစိုးမရ - အနတ္တ။

ဓမ္မံ သရဏံ ဂစ္ဆာမိ တရားတော်မြတ်ကို ကိုးကွယ်ဆည်းကပ်ပါ၏။ ကိုးကွယ်ဆည်းကပ်ခြင်းသို့ ရောက်သော ဤရုပ်နာမ် သင်္ခါရတရားသည် မမြဲခြင်း အနိစ္စ၊ ဆင်းရဲခြင်း - ဒုက္ခ၊ အလိုသို့မလိုက် အစိုးမရ - အနတ္တ။

သံဃံ သရဏံ ဂစ္ဆာမိ သံဃာတော်မြတ်ကို ကိုးကွယ်ဆည်းကပ်ပါ၏။ ကိုးကွယ်ဆည်းကပ်ခြင်းသို့ ရောက်သော ဤရုပ်နာမ် သင်္ခါရတရားသည် မမြဲခြင်းအနိစ္စ၊ ဆင်းရဲခြင်း - ဒုက္ခ၊ အလိုသို့မလိုက် အစိုးမရ -အနတ္တ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၄၆၊ ၄၇၊ ၄၈ )

## ကဗျာလင်္ကာများဖြင့် သင်ကြားပို့ချခြင်း

ဤသို့သော မှတ်သားစရာ နိဿရည်းတို့ဖြင့် စိတ်ကိုအာရုံထား၍ ရှုမှတ်ရသော စိတ္တာနုပဿနာ ရှုမှတ်နည်း၊ အခြားခြားသော ဝေဒနာ နုပဿနာရှုမှတ်နည်း၊ ဓမ္မာနုပဿနာ ရှုမှတ်နည်းတို့ကိုလည်း အခါအားလျော်စွာ မှတ်သားရင်း ကျက်မှတ်စရာ နိဿရည်း ကဗျာလင်္ကာများစွာတို့ဖြင့် သွန်သင်ပြသ ရှုမှတ်ပွားများစေတော်မူ၏။ ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်ကျေးဇူးတော်ကား ကြီးမားလှပေ၏။

## ဆရာတော်ကြီး၏ ဂုဏ်ရည်ထူးတစ်ခု

ဆရာတော်ဘုရားကြီးသည် ကိုယ်တော်၏ အကျိုးနှင့် တပည့်များ၏ အကျိုးအတွက် ဝိပဿနာ ဘာဝနာစခန်းမှာ အားသွန်ခွန်စိုက် အဘယ်မျှရှိပြီး ဗလိဗောဓများ ဖြတ်တောက်၍ အပ္ပကိစ္စသလ္လကဝုတ္တိ၊ ယထာလာဘ သန္တောသဂုဏ်တို့ကို ပြည့်စုံကြောင်းကို အကျယ်ဖော်ပြရန်မလိုဘဲ အောက်ပါကိုယ်တိုင်ရေး စာတန်းများဖြင့်ပင် သိနိုင်လောက်သည်။ စာမှာ အောက်ပါအတိုင်းပါရှိပါသည်။

> "တောရ ရှင်သုမန ခြေတော်ဦးခိုက် လျှောက်လိုက်ပါသည်။ ဓမ္မ ဒါယာဒ - ဘိက္ခဝေ။ အစရှိသော တရားကို မိန့်တော်မူသည်။ ယခု သိမ်ကျောင်းတိုက်ဘုန်းတော်ကြီးမှာ ငါဟူသော အမည်နှင့် ကျောင်းကို ပေးပါ ပေးပါဟူ၍ပြောဆိုသည်မှာ ထိုကျောင်းသည် နိဗ္ဗာန်သာခေါင်၊ ဘေးမဲ့ဘောင်သို့ ကြွသွားသော် ပါမည်လော-မပါလော။ ဘုရားတပည့်တော်မှာလည်း မြတ်စွာဘုရားအလို တရားကို အစဉ်ဟောညွှန်းလျက် ရှိနေပါသည်။ ၎င်းစာ၏ အဓိပ္ပာယ်ကို သမာဓိ - ဉာဏ်သွားနှင့် စဉ်းစားတော်မူပါ။ အဇ္ဈေဝ သဒ္ဒါကိုထောက်လျက် ခန္ဓာနှင့်ရုပ်နာမ်ကို ကြိမ်ဖန်ဖန်သုံးသပ်၍ သင်္ခါရနှင့် အနိစ္စကိုသာ လိုရင်းဖြစ်တော့သည်။"

၁၈၉၄ အထက်ပါစာမှာ အေဒီ ၁၈၉၄ ခု၊ မေလ ၁၈ ရက်၊ (သက္ကရာဇ် ၁၂၅၆ ခု၊ ကဆုန်လဆန်း ၁၅ ရက်) သောကြာနေ့ဟူ၍ ရက်စွဲတပ်ထားကြောင်းတွေ့ရှိရပါသည်။

၎င်းစာလွှာအရ ဆရာတော်ဘုရားကြီးသည် မိမိမှာပစ္စည်းလေးပါး၌ တောင့်တမှု ကင်းကြောင်းနှင့် တရားကို အစဉ်ဟောညွှန်းလျက်ရှိပြီး ကိုယ်တိုင်လည်း လုံ့လကြီးကုတ်အားထုတ်လျက်ရှိကြောင်း သိသာထင်ရှားလှပေသည်။

## အထူးအဆန်း မိန့်ခွန်းတော်တစ်ခု

ဆရာတော်ဘုရားကြီးသည် တောရသို့ ကြွလာပြီးနောက် ရည်မှန်းချက်အတိုင်း တရားထူးမရသမျှ ဒါယကာများ ပင့်ဖိတ်ရာသို့ ကြွတော်မမူချေ။ ထိုကိစ္စနှင့်စပ်လျဉ်း၍ ဒါယကာတစ်ယောက်က -



'အရှင်ဘုရား မြတ်စွာဘုရားသော်မှ ပင့်ဖိတ်ရာသို့ ကြွသေးတာပဲ မဟုတ်လားဘုရား' ဟု ဉာဏ်ကွန့်၍ လျှောက်ထားရာ၊ ဆရာတော်ဘုရားကြီးက အော် . . ဒါယကာကြီးက ကိစ္စပြီးစီး ဘုရားအဖြစ်သို့ ရောက်မှ ပင့်ဖိတ်ရာသို့ ကြွတော်မူကြောင်းသာသိပြီး ဘုရားအဖြစ်သို့မရောက်မီ ခြောက်နှစ်ပတ်လုံး ဒုက္ကရစရိယာ ကျင့်နေစဉ် ပင့်ဖိတ်ရာသို့ မြတ်စွာဘုရား ကြွတော်မမူသည့်အကြောင်းကို ဒါယကာကြီးသိမှမသိဘဲကိုး' ဟု မိန့်တော်မူလိုက်လေသည်။

## ဆရာတော်ကြီးဆုံးမပုံ

လောဘကြောင့် ဒေါသထောင်၊ မောဟမှောင် ပိတ်ဆီး၊ မဂ်ခရီး မျှော်မမြင်၊ ရှုံးဘဝပင်၊ မရှုံးရန်၊ လောဘနှင့် ဒေါသကြဉ်၊ မောဟကို ပယ်ခွာ၍ မဂ်ဆိုဖိုလ်ကိုလှမ်း၊ နိဗ္ဗာန်ဆိပ်ကမ်း။ ။ ဟူ၍လည်းကောင်း။

ဗိသုကာလက်သမား၊ ဆောက်ထားသည့်ခန္ဓာ၊ ပဉ္စကအိမ်ဂေဟာကို၊ နောက်တစ်ဖန် မခိုရအောင်၊ ဘာဝနာမဂ်ဉာဏ်ထားနှင့် ခုတ်ဖြတ်ကြကုန်။ ဟူ၍ လည်းကောင်း။

လူတို့၏ခန္ဓာ၊ ကိုယ်တွင်းမှာ၊ မြွေသုံးစင်း၊ ခွေးသုံးကောင်၊ လှောင်၍ရှိ၊ နေ့စဉ်ကိုက်၍၊ နေ့စဉ် ဟောင်၊ အကြောင်းဘယ်သို့ ဟောင်ကိုက်သနည်း။

ဆေးမသုတ်၊ တုတ်မဆောင်၊ အကြောင်း ဤသို့ဟောင်ကိုက်သနည်း။ ကိုက်သော်လည်း မပေါက်အောင်၊ တုတ်ဆေးကူ၍ဆောင်၊ တုတ်ဆေးဆိုသော် ကြံမချော်နှင့်၊ လက္ခဏ - သရဏဂုံ၊ စွဲသုံးကြကုန်။ ဟူ၍လည်းကောင်း။

ဆေးသုံးလုံးကို နေ့စဉ်သောက်၊ တောင်ဝှေးသုံးချောင်းထောက်၊ ခရီးလမ်းလျှောက် နိဗ္ဗာန်လမ်းပေါက်။ ဟူ၍လည်းကောင်း။ ဘုံသုံးပါးဖြစ်ပျက်ရာ၊ အိုနာသေ၊ နေမလွှတ်၊ ဝဋ်သံသာ၊ ချာချာရစ်၊ မွှန်းနစ်ဟန်၊ ဖန်ဖန်သာ၊ များလှပြီ ဟူ၍လည်းကောင်း။ ဆရာတော်ကြီးကိုယ်တိုင် ရေးသားဖွဲ့ဆိုခဲ့သည်မှာ လွန်စွာမှတ်သားဖွယ်ရာ ဖြစ်ပေသည်။

ၚင်းအပြင် 'ဤအခါ၊ သာသနာ၊ ထွန်းခိုက်ကြုံ၊ စုံစုံမဂ်၊ မြိုင်နက်ခွင်၊ ဝင်စံပျော်၊ တော်လေရဲ့၊ တကဲ့မင်း၊ မပျင်းနှင့် ဟူ၍ သုံးလုံးစပ် ကဗျာများဖြင့်လည်းကောင်း ဆရာတော်ကြီးသည် မိမိမှာလိုသမျှ ကိစ္စအဝဝတို့ကို မှာထားခဲ့လေသည်။

## အနာဂတ်ကို ကြိုတင်၍ သိနိုင်စွမ်းခြင်း အံ့ဖွယ်

ဆရာတော်ဘုရားကြီးသည် အနာဂတ်ကို ကြိုတင်သိစွမ်းနိုင်ခြင်းရှိကြောင်း အထောက်အထားများမှာလည်း အံ့သြဖွယ်ရာများပြားလှပေသည်။

**ဆရာတော်ဘုရားကြီးသည် အနာဂတ်ကိုသိစွမ်းနိုင်သည့်နည်းတူ၊ ဖုံးလွှမ်းကွယ်ပ၊ ရေမြေခြားရာ၊ နီးဝေးမဟူ၊ ညဥ့်ကိုနေ့အလား မြင်စွမ်းနိုင်သောအဖြစ်သည်လည်း ထင်ရှားလှပေသည်။**

ထိုအချက်တို့ကို အထောက်အထားများစွာ ရှိပါသည်။ အချို့အဝက်ကိုသာ သင့်တော်ရုံ ထုတ်၍ ပြရပါတော့မည်။ ယခုတင်ပြမည့်အချက်မှာ ကျွတ်တန်းဝင်မည့် တပည့်တစ်ဦးဖြစ်သော ကိုသာမြိုင်ဆိုသူအကြောင်းဖြစ်ပါသည်။ ထိုကိုသာမြိုင် အကြောင်းကို ပြန်ပြောပြလျှင် ဆရာတော်ကြီး၏ အံ့ဖွယ်ကြည်ညိုဖွယ် ဂုဏ်ထူးကို ပြန်လည်အောက်မေ့ တမ်းတလိမ့်မည်ဖြစ်သဖြင့် ယခုပင်ပြန်ပြောပါမည်။

## ကိုသာမြိုင်အကြောင်း အံ့ဖွယ်တစ်ခု



ဂျုံးဂျုံးကျတောရကျောင်းတိုက် ဝိပဿနာရိပ်သာအနီး၌ ရာဘာခြံ၌နေသော ကိုသာမြိုင်ဆိုသူသည် ဂျုံးဂျုံးကျ ရေတံခွန်စမ်းအိုင်ထဲ၌ နွေအခါ ရေနည်း၍ ပေါများလှသော ငါးတို့ကို မပြတ်တွေ့မြင်နေရသဖြင့် တပ်မက်မှု အလိုဆန္ဒကိုလိုက်ပြီး တပေါင်းလဆုတ်၊ မှောင်မိုက်သောညဉ့်၏ အကာလ သန်းခေါင်အချိန်နှင့် အမှောင်မိုက်ဆုံး အလိုရမက်လောဘတို့ ပေါင်းစပ်ကာ ငါးများတံကိုကိုင်ပြီး ကျောက်ကမူစွန်း၌ ထိုင်၍ ငါးများတော့သည်ဟုဆိုပါသည်။

အမှောင်ထု၏ အကာအကွယ်ဖြင့် မိမိအားမည်သူမျှ မသိနိုင်မမြင်နိုင်ဟု ထင်မှတ်နေသော လောဘသားကိုသာမြိုင်သည် ညဉ့်သီတင်းသုံးရာ ဘုရားကျောင်းပေါ်မှ ချောင်းဟတ်သံနှင့်အတူ 'စမ်းချောင်းထဲမှာ ဘယ်သူလဲဟေ့' ဟူသောညဉ့်၏ တိတ်ဆိတ်မှုကို ဖြိုခွင်းလိုက်သော ဆရာတော်ဘုရားကြီး၏ မေးသံကို မိုးချုန်းသံအလား ကြားလိုက်ရ၏ဟုဆိုပါသည်။

နီးဝေးမဟူ၊ ညဉ့်ကိုနေ့အလား မြင်နိုင်စွမ်း တရားရှင်တို့၏ အစွမ်းသဘောကို မသိရှာသေးသော ကိုသာမြိုင်သည် တစ်စုံတစ်ခုသောအသံကိုကြားလို့ ဆရာတော်ဘုရားကြီးမမြင်ဘဲ ရမ်းသန်းမေးတာပဲ ဖြစ်ရမည်ဟူသော မှားယွင်းသော ထင်မှတ်မှုဖြင့် အပေါ်မှစီးကြည့်လျှင် ပကတိမျက်စိဖြင့် မည်သို့မျှ မြင်ခြင်းငှာ မစွမ်းနိုင်သော ကမူစွန်းကျောက်ဖျာ၏ အောက်သို့ဝင်၍ ပုန်းကွယ်တော့သည်ဟုဆိုပါသည်။

ထိုအခါ 'ဒီက မေးနေပါလျက် ဒင်းဘာကြောင့် ကျောက်ဖျာအောက်ဝင်ပုန်းနေပြန်တာလဲ'ဟူသော ဆရာတော်ဘုရားကြီး၏ ဒုတိယ ထပ်ဆင့်မေးသံကို ငယ်ထိပ်ထက် မိုးကြိုးကျသည့်အလားကြားလိုက်ရသော ကိုသာမြိုင်ခမျာ ဦးခေါင်းစိုက်ကာ မြေကြီးသို့မျက်နှာမှုပြီး 'အော် . . . မကောင်းမှုကိုပြုလုပ်ဖို့ရန် ဆိတ်ကွယ်ရာ မရှိပါတကား' ဟူသော မြတ်ဘုရား၏ ဒေသနာကို ရင်ဝယ်ပိုက်၊ သတိသံဝေဂယူလျက်၊ နေအိမ်သို့သာ တစ်လှမ်းချင်းပြန်ခဲ့လေသည်။ နေအိမ်သို့ ရောက်သည်နှင့် ငါးများတံကို ဓားမဖြင့်ခုတ်စင်း အဆုံးသတ်ခြင်းနှင့်အတူ 'ငါသည်၊ ဤကဲ့သို့သော အကုသိုလ်အလုပ်မျိုး ဘယ်တော့မှမလုပ်တော့ဘူး'ဟု သန္နိဋ္ဌာန်ချ အဆုံးသတ်လိုက်လေသည်ဟု သိရပါသည်။

ဆွမ်းခံရာစသော မျက်ကွယ်ရာတို့၌ တပည့်တို့၏ မလျော်သောသွားလာပြောဆိုမှုများကို ပကတိ မျက်စိဖြင့်မြင်ရသည့်အလား ဆရာတော်ဘုရားကြီး၏ သွန်သင်ဆုံးမမှုများကို ကြားနာရသောတပည့် အပေါင်းတို့မှာ အံ့ဩတုန်လှုပ်ဖွယ်များနှင့်အတူ ကြည်ညိုလေးစားမှုများကို အကြိမ်ကြိမ်ဖြစ်စေခဲ့သည်ဟုသိရပါသည်။

ထိုကိုသာမြိုင်ကဲ့သို့သော အံ့ဩဖွယ်ရာ သာဓကဖြစ်ရပ်များမှာလည်း များပြားလှစွာရှိကြောင်း သိရပါသည်။ ဆရာတော်ဘုရားကြီးသည် ရေမြေခြားရာ၊ နီးဝေးမဟူ၊ ညဉ့်ကိုနေ့အလား မြင်စွမ်းနိုင်ဘိသကဲ့သို့ သူတစ်ပါးတို့၏စိတ်ကိုလည်း သိစွမ်းနိုင်သည့်အဖြစ်ကား ထင်ရှားလှပေသည်ဟူ၍ အနီးနေ ပုဂ္ဂိုလ်များက သိထားသကဲ့သို့ အဝေးနေပုဂ္ဂိုလ်များကလည်း သိထားကြပါသည်။

ထိုအချက်ကို ပိုမိုထင်ရှားအောင် ဦးတာနောဆိုသူ ပုဂ္ဂိုလ်တစ်ဦး၏အကြောင်းကိုပြန်လည်တင်ပြပါမည်။ သို့မှသာ ဆရာတော်၏ ဂုဏ်ပုဒ်သည် ပိုမိုကြည်ညိုဖွယ်ရာ ဖြစ်လာမည်ဖြစ်ပါသည်။ ထို့ကြောင့် လောဘမသေ၊ သောကမွေသည့် ဦးတာနောအကြောင်းကို ပြန်လည်တင်ပြပါမည်။



## ဦးတာနောအကြောင်း အံ့ဖွယ်တစ်ခု

ဦးတာနောအမည်ရှိသော တပည့်ဒါယကာကြီး တစ်ယောက်သည် ပစ္စည်းဥစ္စာပင် မပေါ်ကြွယ်ပြားလည်း ကြည်ညိုလေးစား ယုံကြည်မှုသဒ္ဓါတရားကား ပြည့်စုံလှသဖြင့် ဆရာတော်ဘုရားထံပါးဝယ်၊ ရက်ရှည်ဥပုသ် သီတင်းစောင့်သုံး၍ သမထဝိပဿနာ ဘာဝနာ အားထုတ်ခြင်းတို့ကို မပြတ်ပြုလေ့ရှိသည်ဟုဆိုပါသည်။ ၎င်းဒါယကာကြီး ဦးတာနောသည် ရက်ရှည်ဥပုသ်သီတင်းစောင့်သုံးခြင်း၊ အဓိဋ္ဌာန်ရက်ပြည့်မြောက်ပြီး သောနေ့၌ အိမ်သို့ပြန်ရန် ဆရာတော်ဘုရားကြီးအား ဝတ်ပြုပန်ကြားလေသည်။

ဆရာတော်ဘုရားကြီးသည် ဦးတာနောအား 'ကျောက်ခဲတစ်လုံးလောက် ကောက်ပါ'ဟု မိန့်ကြားလေသည်။ မည်သည့်ကိစ္စဟု မသိရှာသော ဒါယကာကြီး ဦးတာနောသည် ကျောက်စရစ်ငယ် တစ်လုံးကို ကောက်ယူပြီး ဆက်ကပ်လေသည်။ ဆရာတော်ဘုရားကြီးသည် ၎င်းကျောက်စရစ်ခဲကို ခံယူ၍ ခေတ္တမျှဆုပ်ကိုင်ပြီးနောက် 'ရော့ - ဒါယကာကြီးဟု ဆို၍ ပြန်ပေးသည် ရှိသော်၊ ဦးတာနောလက်သို့ ရောက် သောအခါ ရွှေတုံးပကတိဖြစ်နေတော့သည်။

ထိုအခါ ရွှေတုံးငယ်လေးကိုကြည့်ပြီး ဦးတာနောစိတ်ထဲမှာကား 'ငါသာ ကျောက်ခဲတုံးကြီးကြီးကို ကောက်ပေးလိုက်ရင် ရွှေတုံးကြီးကြီးရမှာပဲ' ဟူသော လိုချင် တပ်မက်၊ လောဘတရားကား၊ အတောမသတ်တဖွားဖွားပေါ်ပေါက်လာတော့သည်။ ကျောက်ခဲနှင့်ရွှေတုံး၊ အကြီးနှင့်အငယ်ကို အကြောင်းပြုပြီး၊ လိုချင်မှုလောဘနှင့် နှလုံး မသာမှု ဒေါမနဿတို့ကား ဦးတာနော၏ စိတ်သန္တာန်ဝယ် ဗလုံးထွေးနေတော့ သည်ဟုဆိုပါသည်။

ထိုအခါ ဆရာတော်ဘုရားကြီးက 'ဒါယကာကြီးမှာ လောဘမသေ၊ လောဘ ကိုသေအောင် နိုင်အောင်ကြိုးစားအားထုတ်ပါ။ ဒါယကာကြီး၏ စိတ်ဖောက်ပြန်မှု ဖြစ်သကဲ့သို့ ရုပ်ဝတ္ထုသည်လည်းဖောက်ပြန်တတ်သည်' ဟု မိန့်ကြားတော်မူပြီး 'တစ်ဖန် ပစ်လိုက်ပစ်လိုက်'ဟု မိန့်တော်မူပြန်သဖြင့် သူခိုးလူမိဖြစ်နေသော ဦးတာနော၏ လက်မှလွှတ်ချလိုက်သည်နှင့် ကျောက်စရစ်ခဲမှာ ပကတိအတိုင်းပင် ကျောက်စရစ်ခဲ ပြန်၍ဖြစ်သွားသည်ဟု သိရပါသည်။

၎င်းနောက် ဦးတာနောနှင့်တကွ အနီး၌ တံမြက်လှည်းနေကြသော ဦးဝါယမိန္ဒအမှူးရှိသော တပည့်များအား ပိလိန္ဒဝစ္ဆမထေရ်၏ဝတ္ထုကို ဟောကြားတော်မူသည်ဟုသိရှိရပါသည်။

ဆရာတော်ဘုရားကြီးသည် တပည့်ဒါယကာ ဒါယိကာမတို့၏ ကြံစည်စိတ်ကူးမှုနှင့် တွေ့ကြုံ ခံစားခဲ့ရပုံများကို မလျှောက်ကြားရဘဲ၊ ၎င်းတို့နှင့်လိုက်လျောညီမျှသော တရားဓမ္မများဟောကြားခြင်း၊ ဆုံးမသြဝါဒပေးခြင်းကို ပြုလေ့ရှိသဖြင့် ကြားနာရသူ တပည့်များအဖို့ ကြည်ညိုလေးစားခြင်းကားအတိုင်း အဆမရှိ ဖြစ်ရတော့သည်ဟုသိရှိရပါသည်။

## တရားထူး ရရှိတော်မူခြင်း

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် မိမိအတွက် ကိစ္စပြီးစီးအောင်မြင်ပြီးဖြစ်၍ တရားထူး ရရှိပြီးဖြစ်သော်လည်း ထိုအခါကာလမှစ၍ ငါးနှစ်တာ ကာလကြာသည့်တိုင်အောင် သာသနာတော်၏ အကျိုး၊ တပည့်များ၏အကျိုးကို သည်ပိုးဆောင်ရွက်သွားတော်မူသည်။



တရားထူးရကြောင်းကို တစ်ခွန်းတပါဒမျှ ဖွင့်ဟဝန်ခံခြင်း မရှိသဖြင့် တပည့်တို့မှာ ဘာမှ မသိကြရပါ။ ဤမျှအထိ ဆရာတော်သည် လျှို့ဝှက်သိပ်သည်းတော်မူပါသည်။ သို့သော်လည်း ခန္ဓာတော် သိမ်းခန်းသို့ အချိန်တိုင်သော အခါတွင်သာ ဆရာတော်၏ ဂုဏ်ရည်တို့ကို မသိမနေရ သိခွင့် ရရှိပါတော့သည်။

ဤသို့ သိခွင့်ပေးသည်မှာလည်း နောင်လာ နောင်သားများ မျိုးဆက်သစ်များသည် ရတနာ သုံးပါးအပေါ် ယုံကြည်ကိုးစားမှုများ ပိုမိုခိုင်မြဲအောင် ဟူ၍လည်းကောင်း၊ သာသနာတော်ကြီး ထာဝစဉ် ဆက်လက်ရှင်သန်မှုများ ရစေလိုသောသဘောကြောင့် ဖြစ်သည်ဟူ၍လည်းကောင်း၊ ဆိုသင့်ပါတော့သည်။ ထိုအချက်ကို ပေါ်အောင် ဂျုံးဂျုံးကျဆရာတော်ဘုရားကြီး၏ အံ့ဖွယ် ခန္ဓာတော် သိမ်းခန်းကို ယခုပြောမှ ဖြစ်ပါတော့မည်။ ထို့ကြောင့် ပြောရပါတော့မည်။

## ဦးဘွားအကြောင်း အံ့ဖွယ်တစ်ခု

ဆရာတော်ဘုရားကြီး ဤသို့ အဝေးဗလိဗောကေိုသာ ဖြတ်တောက်ကင်းရှင်းသည်မဟုတ်။ အထံသို့ ရောက်လာသော သင်္ကန်းစသော လောဘ၌လည်း ငဲ့ကွက်တပ်မက်မှု ကင်းရှင်းတော်မူသည်။ တစ်ခါသော် ရန်ကုန်မြို့မှ ရောက်လာသော ပင်စင်အငြိမ်းစား စာရေးကြီး ဦးဘွား F.C. R.A သည် ဆရာတော်ဘုရားကြီး၏ သွားမှု လာမှု ကြည့်ရှုပြောဆိုမှု စသည်တို့၌ ကြည်ညိုဖွယ်ရာ အမူအရာကို အခါမလပ်သတိချပ်၍ ကြည့်ရှုလေ့ရှိသည့်အလျောက်၊ တစ်ခါသော် ဆရာတော် ဘုရားကြီး အား တစ်ပါးတည်း ကျင့်ကြံအားထုတ်ရာ အရှေ့ဘက်ကမ်းမှ ပြန်ကြွလာသည်ကို တွေ့မြင်လိုက်၏။

ဆရာတော်ကြီးသည် အနောက်ဘက်ကမ်းမှာ ရပ်လျက်ရှိသည်ကို မြင်တွေ့ နေရပါသည်။ ရေအနက်မှာလည်း ဒူးဆစ်ခန့်မျှ ရှိသည့်အပြင် စမ်းချောင်းကလေးမှာ လည်း ၄-၅ လံမျှ ကျယ်သဖြင့် ဆရာတော်ကြီးသည် ထိုစမ်းချောင်းကလေးကို မည်သို့ဖြတ်ကူး မည်နည်းဟု စဉ်းစားကြည့်ရှုရင်း၊ တစ်ချက်မျှ သတိလွတ် မျက်နှာ လွှဲမိသည်နှင့် အနောက်ဘက်ကမ်းစပ် မိမိအနီးတစ်ပါးသို့ ရောက်နေသော ဆရာတော် ဘုရားကြီးကိုတွေ့မြင်လိုက်ရာ၊ စာရေးကြီး ဦးဘွားမှာ တွေဝေအံ့သြခြင်းဖြင့် ဆရာ တော်ဘုရားကြီး၏ခြေတော်ကို ဂရုတစိုက်ကြည့်ရှုမိ၏။ ရေတစ်စက်မှ စိုစွတ်ခြင်း မရှိသည်ကိုတွေ့ရသော် အလွန်အမင်း ကြည်ညိုစိတ်ပေါ် ပေါက်လာတော့သည်ဟု ဆိုပါသည်။

၎င်းဒါယကာကြီးသည် နောက်တစ်နေ့၌ သင်္ကန်းတစ်စုံ ယူဆောင်ခဲ့၍ ဆရာတော်ဘုရားကြီးအား ကပ်လှူလေသည်။ ဆရာတော်ဘုရားကြီးသည် သံဃာတော် အားလှူရန် တိုက်တွန်းသောအခါ ဒါယကာက 'အရှင်ဘုရား ဝတ်ရုံသည်ကို ကြည်ညို လိုပါသည်ဘုရား'ဟု အတန်တန်လျှောက်ကြားသောအခါ တိစီဝရိတ် အဓိဋ္ဌာန် သင်္ကန်းတော်ကို ခေတ္တဖယ်ရှား၍ ဒါယကာလှူသောသင်္ကန်းကို ဝတ်ရုံပြီးနောက် 'ကျေနပ်ပြီလား ဒါယကာကြီး'ဟု မိန့်တော်မူရာ၊ ဒါယကာက 'ကျေနပ်ပါပြီဘုရား' ဟု လျှောက်ကြားသောအခါ ၎င်းသင်္ကန်းကိုပယ်ရှား၍ ဆောက်တည်ခဲ့သော အဓိဋ္ဌာန် သင်္ကန်းတော်ကိုပြန်၍ဝတ်ရုံကာ၊ ဒါယကာလှူသောသင်္ကန်းကို သံဃိကလာဘ်သို့ ပို့ဆောင်စေသည်။

ဤမျှလောက် သင်္ကန်းစသော လာဘ်တို့၌ငဲ့ကွက်ခြင်း၊ တောင့်တခြင်းကင်းပြီး၊ ရရသမျှနှင့် ရောင့်ရဲလွယ်သော ယထာလာဘသန္တောသဂုဏ်၊ သွားမှု လာမှု ကြည့်ရှုပြောဆိုမှုတို့၌ သတိမလစ် စောင့်စည်းမှု ဣန္ဒြိယသံဝရ (ဣန္ဒြေကိုစောင့်စည်းခြင်း) ဂုဏ်တို့နှင့် ပြည့်စုံတော်မူလေသည်။



## ဆရာတော်ကြီး စာပေရေးသားမှု ဝါသနာထုံခြင်း အံ့ဖွယ်

ဆရာတော်ဘုရားကြီးသည် စာပေရေးသားမှု ဝါသနာထုံကြောင်းသိရပါသည်။

၁၉၁၉ အေဒီ ၁၉၁၉ (၁၂၈၀ ပြည့်နှစ်)တွင် တုတ်ကွေးကြီးရောဂါ နှင့် စပ်လျဉ်း၍ -
'တစ်ထောင်နှစ်ရာ၊ ရှစ်ဆယ်ပြည့်မှာ၊ သတ္တဝါမည်သူဟု၊ မျက်နှာရှုမရွှေချေ၊ နောင်ရာဇဝင်အစဉ်ထွန်းစေဖို့၊ တိုင်းခရိုင်၊ နိုင်ငံလှည့်၍၊ တရားတော်အမှန်ဟောပေတဲ့ လောကဓာတ် ဝေဒနာ၊ မခံသာ လက်ခြေကွေးလို့ တမေ့မေ့ တမှိန်မှိန်နှင့်၊ သွေးသည်းခြေ လေမဖြောင့်၍၊ ချောင်းဆိုးမူးဝေနှင့် ဓာတ်မီးကျ ပူနာကြသူတို့၊ တရားသံဝေယူလို့၊ နိဗ္ဗာတာ အာရုံပြုလျှင် မီးဓာတ်ငြိမ်း' ဟူ၍ စပ်ဆိုတော်မူခဲ့သည်။

ဆွမ်းကြီးလောင်းလှူပွဲအကြောင်းနှင့် စပ်လျဉ်း၍လည်း -

၁၉၂၁ 'နှစ်ကောဇာလွန်အတိတ်က၊ သဘင်ဉာဏ်ပျော်ရွှင်မှုနှင့် ပြုလုပ်ကြ၊ မိဿက၊ ကုသိုလ်တွေ၊ (၁၂၈၂)မှာ၊ သဘင်ဉာဏ်၊ ပါမဝင်လို့၊ သက္ကစ္စစေတနာနှင့် သံယာတော်မြတ်အပေါင်းကို ဆွမ်းဒါနကပ်လှူလောင်းရတယ်ကွယ်၊ ဇောဖိုလ်မဂ်လှမ်း' ဟူ၍လည်းကောင်း သန့်ရှင်းစင်ကြယ်သောကုသိုလ်များ ဖြစ်စေလိုသော အာသီသဖြင့် ရေးသားတော်မူသည်။ ( အေဒီ ၁၉၂၁ ခုနှစ် )

ဆရာတော်ဘုရားကြီး၏ ရေးသားထားခဲ့သမျှသော စာပေများသည် ကဗျာလင်္ကာတို့ဖြင့် ဖွဲ့စည်းစီကုံးကာ ဆုံးမစာများနှင့်လက္ခဏာယဉ်သုံး၊ မဂ်ဖိုလ်နိဗ္ဗာန်ဆိုက်သော စာပေများသာဖြစ်လေသည်။ ဘယ်စကားကိုပဲ မိန့်မိန့်အဆုံးတွင် နိဗ္ဗာန်နှင့်သိမ်းတော်မူလေ့ရှိတော်မူသည်။

## ဆရာတော်ကြီးနှင့် လောကီ အင်္ဂရိတ်လုပ်ရပ်ကိစ္စ အံ့ဖွယ်

ဆရာတော်ဘုရားကြီး၏ ရေးသားတော်မူအပ်သော စာပေကျမ်းဂန်များကို အကြောင်းပြု၍ ဆက်လက်ဖော်ရသော် ဆရာတော်ဘုရားကြီးသည် ဂျုံးဂျုံးကျတောရ ဝိပဿနာရိပ်သာစခန်း၌ လောကီလုပ်ရပ်နှင့်စပ်၍ အရိပ်အမြွက်မျှပင် လုပ်ဆောင်ခြင်းကို မတွေ့မမြင်ရသော်လည်း လောကီ အင်္ဂရိတ်လုပ်ရပ်ကိစ္စ၌ ကျွမ်းကျင်ကြောင်းကား ထင်ရှားလှပေသည်။

(ကျမ်းကိုး၊ ၁၂၈၀ ပြည့်နှစ် ဒုတိယအကြိမ်ပုံနှိပ်ထုတ်ဝေသော ' နမော ဝိမုတ္တိရသရွှဖွယ်' နိယျာနိကကျမ်း၊ စိတ္တဂဏ္ဍိကျမ်း၊ စာအုပ်တွင် ပထမအကြိမ် ပုံနှိပ်ထုတ်ဝေစဉ်က ပါဝင်ခဲ့သော စာပုဒ်တစ်ပိုဒ်ဖြစ်သည့် (လုပ်ရပ်ကိုပြီးအံ့) အစချီသောအခန်းကို ပယ်နုတ်၍ ထားတော်မူသည်။)

ထိုသို့ ပယ်နုတ်ထားကြောင်းကို ဦးကဝိန္ဒ (ယခု ဂျုံးဂျုံးကျဆရာတော်)က -
'အရှင်ဘုရား လုပ်ရပ်ကို ပြီးအံ့' အစချီသော အခန်းကို အဘယ်ကြောင့် ပယ်နုတ်ထားပါသလဲဘုရား'ဟု မေးမြန်းလျှောက်ထားကြရာ ဆရာတော်ဘုရားကြီးက 'အိမ်းဆရာထည့်ထားလဲ အလကားပေါ့၊ ဆရာ့ကို မေးတဲ့သူတစ်ယောက်မှ မရှိဘူး၊ ကိုယ်ထင်ရာကိုယ်လုပ်ကြတာပဲ၊ အမှန်စင်စစ်၊ လုပ်ရပ်သည် လည်း လောကီဖြစ်၍ အနိစ္စတရားကို မလွန်နိုင်၊ လောကီကို အလိုမရှိကြလေနှင့်'ဟု မိန့်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၃)

## ဆရာတော်ကြီး မှာကြားချက်များ အံ့ဖွယ်

ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကို ရေးသားသော ဦးပဥ္ဇင်း ကိုယ်တိုင်ကလည်း ဆရာတော်ဘုရားကြီးအား လောကီနည်းကောင်းများ ပေးသနားရန်လျှောက်ထားသောအခါ -



တပည့်တို့ အင်းအိုင်ဂါထာ၊ လက်ဖွဲ့မန္တာန်၊ ဆေးဝါးပယောဂ၊ ပြဒါးသိဒ္ဓိ၊ သံသိဒ္ဓိ၊ ဆေးသိဒ္ဓိ၊ အင်းသိဒ္ဓိ၊ ပီယသိဒ္ဓိ၊ ကာယသိဒ္ဓိ၊ မနသိဒ္ဓိ စသော သိဒ္ဓိအပေါင်း ထောင်သောင်းဝိဇ္ဇာများပြားစွာဖြင့် ပြီးမြောက်ပါသော်လည်း လောကီဝိဇ္ဇာဖြစ်၍ အနိစ္စတရားကို မလွန်နိုင်၊ သို့အတွက်ကြောင့် လောကီကိုအလိုမရှိကြနှင့်၊ လောကီကို ဆရာအလိုမရှိ၊ စွန့်လိုက်ပြီ။ လောကုတ္တရာ ဝိဇ္ဇာအစစ်ကို ရှာကြလော။ ဆရာ၏နည်းကို သိလိုလျှင် ဆရာ၏စာအတိုင်းကြည့်၍ ဆရာကဲ့သို့ အားထုတ်လေ'ဟု မိန့်တော်မူကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၄)

ဆရာတော်ဘုရားကြီး ဆက်လက်မိန့်လိုက်သည်မှာ -

'တပည့်တို့ သာသနာငါးထောင်ရှိရာတွင် တစ်ဝက်မျှမတိုင်သေး။ သာသနာသည် ငှက်ခါးများပျံဘိသကဲ့သို့ နေပေ၏။ သာသနာသုံး ရပ်မဆိတ်ဟု မှတ်လေကုန်။ သာသနာ မဆိတ်သမျှ နိဗ္ဗာန်မဆိတ်၊ ၎င်းနိဗ္ဗာန်မဆိတ်ဟု ဆိုခြင်းသည် တံခါးဟောင်းလောင်းနေဘိ၏။ ၎င်းနိဗ္ဗာန်သွားသူလည်းမဆိတ်။ သတ္တိကောင်း၍ ပညာမျက်စိချင်ခြင်းဖြင့် သွားသောသူရောက်၏။ အပါယ်သွားသူမဆိတ်။ ဖြဟ္မာ့ပြည်လည်း သွားသူမဆိတ်။ ၎င်းပြင် နိဗ္ဗာန်သည်လည်းမဆိတ်။ သို့သော်လည်း သက်တော်ထင်ရှားမြတ်ဘုရားရှိစဉ်ကနှင့် ယခုအခါ နိဗ္ဗာန်ရခြင်း တူကြသော်လည်း ပုဂ္ဂိုလ်ခြင်းထူးခြား၏။ ယခုခန္ဓာများသည် ကျွမ်းလွယ်ကျက်လွယ်၏'ဟု မိန့်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၄)

## ဦးလူဝအကြောင်း အံ့ဖွယ်တစ်ခု

ထို့ပြင်လည်း ဆရာတော်ဘုရားကြီးသည် လူဝဟု အမည်ပေးထားသော တပည့်တစ်ယောက်သည် အကြောင်းအားလျော်စွာ အဂ္ဂိရတ်လုပ်ရပ်ကိစ္စ၌ စိတ်ဝင်စားသဖြင့် ဆရာတော်ဘုရားကြီးအား -

'အရှင်ဘုရား ပြဒါးရည်ကို မူလခဲရည်ရရင် ကိစ္စပြီးစီးအောင်မြင်နိုင်တဲ့နည်းကို တပည့်တော် ရ,ထားပါသည် ဘုရား'ဟု လျှောက်ထားသောအခါ -

'ပြဒါးရည်ပါသလား'ဟု ဆရာတော်ဘုရားကြီး မိန့်တော်မူသည်နှင့် မိမိအသင့်ဆောင်ယူထားသော ပြဒါးရည်ကို ဆက်ကပ်လိုက်လေသည်။ ဆရာတော်ဘုရားကြီးသည် ပြဒါးရည်ကို လက်ပေါ်တွင် သွန်းလောင်းဆုပ်ကိုင်၍ ခေတ္တမျှကြာသောအခါ ကိစ္စပြီးအောင်မြင်တဲ့ နည်းလမ်းရှိရင် သွားလုပ်တော့ တပည့်'ဟု မိန့်တော်မူပြီး အတုံးအခဲ ပြဒါးလုံးကိုပေးတော်မူလိုက်သည်။ ဆရာတော်ဘုရားကြီးသည် ပြဒါးရည်ကို လက်ပေါ်တွင် သွန်းလောင်းဆုပ်ကိုင်၍ ခေတ္တမျှကြာသောအခါ -

'ကိစ္စပြီးအောင်မြင်တဲ့ နည်းလမ်းရှိရင် သွားလုပ်တော့တပည့်' ဟု မိန့်တော်မူပြီး အတုံးအခဲပြဒါးလုံးကို ပေးတော်မူလိုက်သည်။ (မှတ်ချက်။) ၎င်းပြဒါးခဲသည် ၎င်းတပည့်အား မည်သည့်အကျိုးမျှ မဖြစ်ထွန်းစေခဲ့ပေဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၅)

## လောကီကို အလိုမရှိခြင်း အံ့ဖွယ်

ဤဖြစ်ရပ်များကို ထောက်ရှုခြင်းအားဖြင့် ဆရာတော်ဘုရားကြီးသည် အဂ္ဂိရတ်လုပ်ရပ်စသော လောကီကိစ္စတို့၌ တတ်သိလိမ္မာကျွမ်းကျင်ကြောင်း ထင်ရှားသော်လည်း မိမိအတွက် လိုအပ်မှု မရှိတော့



ကြောင်းသိရပါသည်။ ပြင်းထန်လှသော ဘာဝနာပွားများအားထုတ်မှုကြောင့် သမာဓိစိတ်တန်ခိုး လေ့ကျင့်မှု၌ အလွန်အမင်း ထက်မြက်နေကြောင်း ထင်ရှားလှပေသည်။

ဆရာတော်ဘုရားကြီးသည် နှစ်ပေါင်းသုံးဆယ်ကျော်ကြာ ဂျုံးဂျုံးကျတောရ ဝိပဿနာ ရိပ်သာစခန်း၌ တပည့်များအား သတိပဋ္ဌာန်လေးပါးနှင့် အံဝင်ဂွင်ကျသော ဝိပဿနာရှုနည်းစုံကို သင်ကြားပြသ ရှုမှတ်အားထုတ် စေသော်လည်း တပည့်များအတွက် လောကီကိုလုံးဝ ရှောင်ကြဉ်စေခြင်း မပြုခဲ့။ လောကုတ္တရာကိုသာ တစ်ဖက်စောင်းနင်း ဟောညွှန်ခြင်းလည်း ပြုတော်မမူခဲ့ပေ။

## သူဌေး ဦးကျော်လှအကြောင်း အံ့ဖွယ်တစ်ခု

သူဌေး ဦးကျော်လှသည် စမ်းချောင်းအတွင်း၌ သိမ်ဆောက်လုပ်လှူဒါန်းလိုကြောင်း လျှောက် ကြားသောအခါ ဆရာတော်ဘုရားကြီးက 'အချိန်ကောင်း နေ့ကောင်းရက်သာ ရွေးပြီးဆောက်တာပေါ့ ဒါယကာကြီး'ဟု မိန့်တော်မူရာ ဒါယကာကြီးဦးကျော်လှက 'အရှင်ဘုရားကုသိုလ်လုပ်တာပဲ နေ့ကောင်း ရက်ကောင်းရွေးရန်မလိုပါဘူးဘုရား'ဟု ပြန်၍လျှောက်ကြားလေသည်။ 'ဒီလိုဆိုရင်လဲ ဒါယကာကြီး သဘောပဲလေ'ဟု မိန့်ကြားခွင့်ပြုလိုက်လေသည်။

ဆရာတော်ဘုရားကြီးသည် သဘောတော်မှာ ထိုထိုသောပညာရပ်တို့၌ လျှို့ဝှက်သော သင်္ဂြိုဟ်တွက်ချက်နည်းစုံ တော်မူသည့်အလျောက် မိမိက ကြောင်းမြော်မြင် မိန့်ကြားတော်မူပါလျက် မိမိဆန္ဒ မိမိအယူအဆကိုသာ ဇွတ်အတင်း တင်ပြလာသော တပည့်များအားသော်လည်း ဆန့်ကျင်တော်မမူဘဲ၊ ၎င်းတို့၏ သဘောဆန္ဒအတိုင်း ခွင့်ပြုမြဲဖြစ်သည်။ နောင်အမှားကိုမြင်၍ ချဉ်းကပ်လာမှသာ တစ်ဖန် ဆုံးမတော်မူသည်။

ယခု သိမ်ဆောက်ရန် ကိစ္စမှာလည်း ဒါယကာကြီးက အနာဂတ်လောက၏ ဖြစ်ပျက်မှုသဘောကို ကြိုတင်မသိဘဲ မိမိ၏သဘောဆန္ဒကို တင်ပြလာခြင်းဖြစ်သည့်အတွက် ဆရာတော်ဘုရားကြီးကလည်း ခွင့်ပြုလိုက်ခြင်း ဖြစ်ပေသည်။

နည်းစနစ်နှင့် အချိန်ကာလကို မငဲ့ကွက်ဘဲဆောက်လုပ်သော သိမ်တော်ကြီး သည် မိုးကာလသို့ရောက်လတ်သော် သည်းထန်လှစွာသော မိုးကြောင့် စမ်းရေအလုံးတို့ ၏ တိုင်လုံးကျွတ်တိုက်စား မျှောပစ်ခြင်းသို့ရောက်ရတော့သည်။

ထိုအခါ စိတ်မချမ်းသာဖြစ်နေကြသော သိမ်ဒါယကာ သူဌေး ဦးကျော်လှနှင့် တကွ တပည့်အပေါင်းတို့အား ဆရာတော်ဘုရားကြီးက တရားဟောပြ ညွှန်ကြားရပြန် လေသည်။

'တပည့်တို့ သင်္ခါရတရားတို့သည် ဖြစ်ပြီးလျှင် ပျက်တတ်သော သဘောရှိကုန် ၏။ စိုးရိမ်ခြင်းမဖြစ်ကြကုန်နှင့် ဖြစ်ပျက်ပြီးသော ကိစ္စကို ထားလိုက်ကြတော့။ အမှန်ဆို ရသော် ကုသိုလ်ဒါနပြုသည်ဟုဆိုငြားလည်း မိမိတို့မှာ လောကီခန္ဓာ ရှိနေသေးတဲ့ အတွက် အခါခပ်သိမ်း လောကီကိုပစ်ပယ်ရန်မသင့်။ အထိုက်အလျောက် ယူသင့်သည် ကို ယူရသေးတယ်' စသည်ဖြင့် မိန့်ကြားတော်မူပြီး ဆရာတော်ဘုရားကြီးကိုယ်တိုင် ပုဏ္ဏားရွှေအိုးရကိန်း'ဟူသော အချိန်အခါ ပန္နက်တို့ဖြင့် နည်းစနစ်ကျနစွာဖြင့် ထပ်မံ ဆောက်လုပ်တော်မူစေသည်။

ထိုထပ်မံဆောက်လုပ်အပ်သော ရေသိမ်တော်ကြီးကို ရေတိုက်စားခြင်းမှ ကာကွယ်ရန် ကာရံထားသော ပျဉ်ချပ်များကို ယုံမှားသံသယဖြင့် ခွာယူကြသော လူမသမာ ပုဂ္ဂိုလ်အပေါင်းတို့အားလည်း တပေါင်းလနေ့ခေါင်ခေါင်၌ မိုးကြိုးကျခြင်း ဖြင့် ထိုပုဂ္ဂိုလ်တို့၏ ယုံမှားသံသယကို ပယ်ဖျောက်ကာ သတိပေးခဲ့ပါသည်။ ထိုရေ



သိမ်တော်ကြီးကား ယခုထက်တိုင် အန္တရာယ်ကင်းစွာ တည်ရှိနေကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇)

## တပည့်များကို စောင့်ရှောက်တော်မူခြင်း အခွဲ့ယ်

ဆရာတော်ဘုရားကြီးသည် အထက်၌ဖော်ပြခဲ့သည့်အတိုင်း လောကီကိုယူသင့်ရာ၌ ယူအပ်ကြောင်းကို ညွှန်ကြားသကဲ့သို့ တပည့်တို့အား ကျရောက်လတံ့သော အန္တရာယ်ကို ကြိုတင်သတိပေးခြင်း၊ ကျရောက်ပြီး အန္တရာယ်တို့ကို ကောင်းမှု ကုသိုလ်ပြုလုပ်ဆောက်တည်စေခြင်း ဟူသော ဗုဒ္ဓအလိုတော်ကျ ယတြာချေနည်းတို့ဖြင့် ကင်းငြိမ်းပြေပျောက်စေခြင်း စသည်တို့ကိုလည်း ပြုစွမ်းတော်မူသည်။ များစွာသော ဖြစ်ရပ်များအနက် လူသိထင်ရှားသော ဖြစ်ရပ်တစ်ခုကို ဖော်ပြလိုပေသည်။

## ဦးထွန်းမောင်အကြောင်း အခွဲ့ယ်တစ်ခု

မုဒုံမြို့၌ ဆရာတော်ဘုရားကြီး၏ တပည့်ဒါယကာ ဦးထွန်းမောင်သည် ဂျုံးဂျုံးကျ တောရဝိပဿနာရိပ်သာစခန်း၊ ဆရာတော်ဘုရားကြီးထံတွင် ဥပုသ်သီတင်းဆောက်တည်၍ ဝိပဿနာ အလုပ်စခန်းဝင်ရာ မိမိရည်မှန်းထားသော အဓိဋ္ဌာန်ရက် ကိုးရက်ပြည့်မြောက်ပြီးဖြစ်၍ ဆယ်ရက်မြောက်သော နေ့၌ မိမိနေအိမ်သို့ ပြန်လိုကြောင်းလျှောက်ကြားလေသည်။

ဌင်းဒါယကာသည် အမှုအတွက်ကြောင့် နေအိမ်တိုက်တာနှင့် လယ်ရော၊ ရာဘာခြံပါ ပေါင်နှံရသည်အထိ ပစ္စည်းဥစ္စာ ကုန်ဆုံးခြင်းသို့ရောက်ရပြီး၊ ဆရာသမားထံပါး ချဉ်းကပ်မှုမပြုနိုင်လောက်အောင်ပင် စိတ်သောကဖြစ်ရတော့သည်။

ရက်လတွေကြာညောင်းမှ ဆရာတော်ဘုရားကြီးထံ အဖူးအမြော်ရောက်ပြီး မိမိ၏စိတ်သောကဖြစ်ရပ်များကို လျှောက်ကြားလေသည်။ ထိုအခါ ဆရာတော်ဘုရားကြီးက 'တပည့်မှာ ကုသိုလ်ဆက် လိုအပ်နေသည်။ ကုသိုလ်ဆက်ပြုလုပ်ပါဦး' ဟု မိန့်တော်မူလိုက်လေသည်။

ဌင်းဒါယကာသည် ဆရာတော်ဘုရားကြီး မိန့်ကြားချက်ကို သာမညဟု မယူဆဘဲ၊ သဘောဆန္ဒသက်ဝင်လာသဖြင့် တရားအားထုတ်တော်မူရာ အရှေ့ဘက်ကမ်း၌ သီလတရားချီးမြှင့်ဖို့ရန် ဇရပ်တစ်ဆောင်ဆောက်လုပ်လှူဒါန်းပြီး ဦးမောင်၊ ဦးသာမြိုင်၊ ဦးဘသန်း၊ ဦးခင်ဖေတို့ လေးယောက်ကို ဒုလ္လဘရဟန်းအဖြစ်၊ မောင်ရင်ဖေအား သာမဏေအဖြစ်သို့ရောက်အောင် ရဟန်းဒါယကာ ရှင်ဒါယကာ အဖြစ်ခံယူကာ ဆရာတော်ဘုရားကြီး မိန့်ကြားတော်မူသည့်အတိုင်း၊ ကုသိုလ်ဆက်ပွားများလိုက်လေသည်။

ဤသို့ ကုသိုလ်ဆက်ပွားများ၍ မကြာမြင့်မီ ပစ္စက္ခမှာပင် ဖြစ်ပွားခဲ့သော အမှုသည်လည်း အလိုအလျောက်ပြေငြိမ်းခြင်းသို့ ရောက်ရသည့်အပြင်၊ မမျှော်လင့်ဘဲ တက်လာသော ရာဘာဈေးနှုန်းကြောင့် အမြတ်အစွန်းများ ပြန်လည်ရရှိ၍ ရှေးယခင်က ပေါင်နှံထားသော နေအိမ် တိုက်တာနှင့် လယ်ရော၊ ရာဘာခြံပါ မိမိလက်ထဲသို့ ပြန်လည်ရောက်ရှိလာသည်သာမက၊ ရှေးယခင်ကထက်ပင် စီးပွားဖြစ်ထွန်းခြင်းအကျိုးကို ခံစားရသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၉ )

ဆရာတော်ဘုရားကြီးသည် အထက်ဖော်ပြပါ ဒါယကာကြီးဦးထွန်းမောင် အလားတူ၊ ဘုရားရှင်၏ အလိုတော်ကျ ထိုထိုသော ကုသိုလ်ဆက်ကို အကြောင်းအားလျော်စွာ ပွားများအားထုတ်စေခြင်းဖြင့် များစွာသော တပည့်တို့၏အကျိုးကို သည်ပိုးဆောင်ရွက်တော်မူလေသည်။



## တရားထူးရတော်မူခြင်း အံ့ဖွယ်

ဆရာတော်ဘုရားကြီးသည် သမထဝိပဿနာ နှစ်ဖြာသော ဘာဝနာကျင့်စဉ်ကို နေ့ရောညပါ အခါမစဲ သဲသဲမဲမဲအားဖြင့် ပွားများအားထုတ်တော်မူခဲ့လေရာ

၁၉၁၈ အေဒီ ၁၉၁၈ အောက်တိုဘာလ ၂၈ ရက် တနင်္လာနေ့ (၁၂၈၀ ပြည့်နှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၉ ရက်နေ့၊ ည ၇ နာရီအချိန်)မှ အစပြု၍ လကျာ်တနင်္ဂနွေထောင့်၊ လက်ဝဲထောင့်၊ မျက်နှာတော် ရာဟုထောင့်၊ ဣရိယာပုထ်ပြုလျက် ပရမတ္ထဓမ္မ၊ မြေကြည်လင်၊ မြတ်လှသော အရသာထူးကို အဆုံးအထိ အစဉ်ခံစားပြီး ထင်ရှားစွာ ရရှိတော်မူကြောင်းကို ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် မိန့်တော်မူသောကြောင့် တပည့်များသိရခြင်းဖြစ်သည်။

ဤသို့ သိထားရပြီးဖြစ်၍ တစ်နေ့သောအခါ ဦးပဥ္စင်းသည် ဆရာတော်ဘုရားကြီးအား 'ဆရာတော်ဘုရား ရဟန္တာဖြစ်တော်မူသလားဘုရား'ဟု လျှောက်ထားရာ -

'တပည့် ဤကဲ့သို့မမေးနှင့်၊ ဆရာသည် နိဗ္ဗာန်ကိုလိုချင်လို့ တောထွက်၍ နိဗ္ဗာန်အလုပ်ကိုလုပ်သည်။ ဆရာသည် စစ်တမ်းချက်ဖြင့်၊ ပထမတစ်ချက်၊ ဒုတိယတစ်ချက်၊ တတိယတစ်ချက်၊ ၎င်းသုံးချက်ပြန်၍ကြည့်ရာ ၎င်းသုံးပါးလုံးညီညွတ်သည်။

'ငါ ရဟန္တာဖြစ်သည်ဟု ပြောအပ်မပြောအပ်ကိုသိရမည်။ အရပ်ကိုလည်း၍ တအော်အော်ဖြင့် မောင်းမတီးအပ်'ဟု မိန့်တော်မူကြောင်းသိရပါသည်။

'နိဗ္ဗာန်ကို ရမရ၊ ပုဂ္ဂိုလ်ပြောသင့်မပြောသင့်ဟု ရွေးချယ်ရမည်။ အစွန်းမထွက်အပ်၊ လောကုတ်ကားချိုမထောင်အပ်။ နိဗ္ဗာန်လည်းရှိသည်ဟု ဘုရားရှင်ဟောတော်မူသည်။ နိဗ္ဗာန်အကြောင်းကိုလည်း ဟောကောင်းပြောကောင်းသည်။ ဟော၍ မရဘူးဆိုလျှင် ၎င်းသူ နိဗ္ဗာန်အလုပ်ကိုမလုပ်တတ်'။

'နိဗ္ဗာန်ရှိသည်ဟု ပြသော်လည်း ဉာဏ်မျက်စိကန်း၍မမြင်။ နေ လ ရှိသည်ဟု ကောင်းကင် မြင်သောသူတို့က ပြောသော်လည်း၊ ဝမ်းတွင်းကန်းနေသူသည် နေ လ မရှိဟု ငြင်းဘိသကဲ့သို့ရှိတော့သည်။ စာမတတ်သောသူ မျက်စိမမြင်၍ ခက်တတ်သည်။ သတိထား၍ ကြောက်ကြ။ စာမသိတသိသူ အနိုင်ယူလို၍ ခက်တတ်သည်။ သတိထား၍ကြောက်ကြ။ စာတတ်သောသူကို နိဗ္ဗာန်ရနိုင်သည်ဟု ပြောသော စာနှင့် ခံ၍ခက်လိမ့်မည်၊ သတိထား၍ကြောက်ကြ ၎င်းကြောက်သုံးလုံးကို လက်ကိုင်ထားကြဟု မိန့်တော်မူလေ့ရှိသည်။

၎င်းနောက်ဆက်လက်၍ 'ပထမသူသည် တုတ်ဆွဲခံလျှင် နိဗ္ဗာန်လမ်းသို့ သွားနိုင်၏။ ဒုတိယ သူသည် မမြင်တမြင်ဖြစ်၍ တုတ်ဆွဲလည်းမခံချင်၊ လမ်းမှန်လည်း မြန်မြန်မသွားနိုင်၊ အကန်းဟုဆိုမှာလည်းမခံနိုင်၊ ဤကဲ့သို့ ဖြစ်လေသောကြောင့် ၎င်းသူလည်း တုတ်ဆွဲခံလျှင်ရောက်၏။

'တတိယ စာတတ်သူကား သွားလျှင်ရောက်၏။ မာန်ရှိလျှင်မရောက်' စသည်ဖြင့် မိန့်တော်မူသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ထူးမြတ်သော လောကုတ္တရာတရားကို လက်ဝယ်ပိုင်ပိုင် ကိုယ်တော်တိုင် သိရှိခံစားတော်မူပြီးဖြစ်၍ ကြည်လင်သော ဣန္ဒြေ ရင့်ကျက်သော သတိပညာတို့ဖြင့် ကြည်ညိုဖွယ်ရာ အံ့ဖွယ်အဖြာဖြာတို့သည်ကား ပြည့်စုံကြောင်း သက်သေကောင်းများရှိပါသည်။



## ဆရာတော်ကြီး ကြိုတင်မိန့်ကြားချက်များ

၁၉၂၄ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၂၄ ဇန်နဝါရီလ ၇ ရက်၊ တနင်္လာနေ့ (၁၂၈၅ ခု၊ ပြာသိုလဆန်း ၂ ရက်နေ့)မှစ၍ ညာခြေဖမိုးတော်၌ လေဖောသော ဝေဒနာကပ်ရောက်လာသည်။ ၎င်းဝေဒနာသည် တဖြည်းဖြည်းတိုးလာသည်ကို တပည့်များ သတိပြုမိကြလေသည်။

၁၉၂၄ အေဒီ ၁၉၂၄ ဇန်နဝါရီ ၉ ရက်၊ (၁၂၈၅ ခု၊ ပြာသိုလဆန်း (၄) ရက်နေ့)၌ ဆရာတော်ဘုရားကြီးသည် တပည့်များအား -

**'တပည့်တို့ - ဆရာတို့၏ ခန္ဓာအိုကြီးသည် လာမည့်ပြာသိုလပြည့်ကျော် ၈ ရက်နေ့ဆိုလျှင် အနှစ် ၇၀ တင်းတင်းပြည့်တော့မည်။ ၎င်းလပြည့်ကျော် ၈ ရက်နေ့ မတိုင်မီအတွင်း ရှင်းလင်းအောင်သိမ်းမှ သင့်လျော်မည်'ဟု မိန့်တော်မူသည်။**

## ဆရာတော်ကြီး မိန့်ကြားတော်မူသော စကားအဆန်းများအံ့ဖွယ်

ထိုအခါ တပည့် ဦးပဥ္စင်းတို့မှာ ထူးဆန်းသော စကားတော်ကို ကြားရသဖြင့် လွန်စွာ ထိတ်လန့်လျက်ရှိကြလေသည်။ ခန္ဓာသိမ်းပုံကို သိလိုပါသည်ဘုရား လျှောက်ကြားသည်တွင် ဆရာတော်ဘုရားကြီးက 'သိမ်းသည့်အခါ ထင်ရှားပြသော် များစွာလန့် ကြောက်ကြသည်။ ဉာဏ်ရင့်သန်အောင် ဝိပဿနာကို အခါခါအားထုတ်ကြ' ဟု ဆုံးမတော်မူပြန်သည်။

**'ဆရာသည်ဘုံသုံးပါး၌ မနေတော့ပြီ၊ အကြည်စာတ်ခံစားတော့သည်။ ခန္ဓာအိုကြီးကို အလှူခံသူတို့က စွန့်ရန်လျှောက်ထားသောကြောင့် ၎င်းတို့အား စွန့်ခဲ့ရပေမည်'ဟု မိန့်တော်မူသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀ )

ထိုအခါ ဦးပဥ္စင်းဦးသောဘိတက တပည့်များကို ငဲ့သောအားဖြင့် တစ်နှစ်နှစ်နှစ်ခန့် ဆိုင်းငံ့ရန်လျှောက်ထားရာ -

**အရှေ့လောကဓာတ်မှ ထွက်ပေါ်လာသော နေမင်းကြီးကို အနောက်လောကဓာတ်တို့မဝင်ရန် တားဆီးခြင်းငှာ မတတ်သာဘိသကဲ့သို့ ဆရာ၏ ခန္ဓာသိမ်းမှုမှာလည်း တားဆီးငံ့ဆိုင်းခြင်းငှာမတတ်သာပေ။ ဆက်ဆက်ပင် သိမ်းရပေတော့မည်။ သဲလုံးနှင့်အမျှ ဘုရားအစရှိသော ရဟန္တာသူတော်ကောင်းတို့သည် လျှောက်ထားနေလျှင် နိဗ္ဗာန်သို့မရောက်နိုင်'ဟု မိန့်ဆိုတော်မူလေသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀ )

၁၉၂၄ အေဒီ ၁၉၂၄ ခု ဇန်နဝါရီ ၁၃ ရက်၊ တနင်္ဂနွေနေ့ (၁၂၈၅ ခု၊ ပြာသိုလဆန်း ၈ ရက်နေ့)သို့ ရောက်သောအခါ အရှေ့ဘက်ကမ်း ဒါယကာကြီး ဦးထွန်းမောင် လှူဒါန်းသော ဓမ္မာရုံဇရပ်၌ ဦးဝါယမိန္ဒ (မော်လမြိုင်မြို့၊ မောင်ငံရပ် ရဲကျောင်းဆရာတော်)နှင့်တကွ တပည့်များအား ဝေဒနာ ခံစားမှုနှင့်စပ်၍

**'တပည့်တို့ ခန္ဓာကိုယ်ပျောက်နေရင် ဝေဒနာလည်း ပျောက်နေတာပဲ၊ ခန္ဓာကိုယ်ပေါ်လာရင် ဝေဒနာလည်းပေါ်လာတတ်သည်။ လပြည့်ကျော် ၈ ရက်နေ့မတိုင်မီ ဆရာရဲ့ ခန္ဓာအိုကြီးကိုသိမ်းမှ သင့်လိမ့်မည်'ဟု ဒုတိယအကြိမ် မိန့်တော်မူသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀ )



၁၉၂၄ အေဒီ ၁၉၂၄ ဇန်နဝါရီလ ၁၄ ရက်၊ တနင်္လာနေ့ (၁၂၈၅ ခု၊ ပြာသိုလဆန်း ၉ ရက်နေ့)သို့ ရောက်သောအခါ ဦးကင်မီအမှူးရှိသော ထင်ရှားသော တပည့်ဒါယကာများစုရုံး၍

'တပည့်တော်တို့ နှစ်ရှည်လများ ကိုးကွယ်ဆည်းကပ်ခဲ့သော မိမိတို့ဆရာသမားကို ပျံလွန်တော်မူသောအခါ ထိုက်ထိုက်တန်တန် ပူဇော်လိုပါသည်ဘုရား'

ဟု လျှောက်ကြားသောအခါ ဆရာတော်ဘုရားကြီးက -

'တပည့်တို့ ဆရာ့ခန္ဓာကိုယ်ကို ဆရာထားခဲ့လျှင် များစွာသော ကြက်တွေဝက်တွေလည်း သေကြေပျက်စီးပြီး အကုသိုလ် ဒုစရိုက်မှုပွားကြလိမ့်မယ်၊ ကလိမ်စေ့ကို ငြမ်းဆင်သကဲ့သို့ ပွဲလမ်းသဘင် ပျော်ရွှင်မှုတို့ဖြင့် ရှုးကြလိမ့်မယ်။ အချို့လည်း အပါယ်လားကြလိမ့်မယ်။ ဘုရားရဟန္တာများလည်း နှစ်သက်တော်မမူ။ ဆရာ့ခန္ဓာအိုကြီးကြောင့် တပည့်တို့ ပုတီးစိတ်၊ တရားအားထုတ်မပျက်စေရဘဲ၊ ကြေးပြားနှစ်ပြားတောင် မကုန်စေရဘူး'ဟု မိန့်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၁)

အမှန်စင်စစ် ဆရာတော်ဘုရားကြီးသည် သာသနာတော်၏ ခြောင့်တံကျင်သဖွယ်ဖြစ်သော နစ္စ ဂီတ စသော အမှုကို မနှစ်သက်၊ ခွင့်မပြုသကဲ့သို့ ကြီးကျယ်ခမ်းနား အကုသိုလ် ဒုစရိုက်များသော ဘုန်းကြီးပျံပွဲများကိုလည်း မလိုလား မနှစ်သက်ချေ။ ယနေ့တိုင်အောင် ဆရာတော်ဘုရားကြီး တည်ထောင်ခဲ့သော ဂျုံးဂျုံးကျတောရကိုဏ်း၌ ကြီးကျယ်ခမ်းနားသော ဘုန်းကြီးပျံပွဲကား မရှိခဲ့ချေ။ သာမညဖြင့်သာ ကိစ္စပြီး သင်္ဂြိုဟ်ကြရသည်။

ၚင်းနောက်၊ ဆရာတော်ဘုရားကြီးက ဆက်၍ -

'ကဲ - ကဲ တပည့်တို့ ဆရာ့ခန္ဓာကိုယ်ကို လိုချင်ကြလျှင်၊ တစ်ထိုင်စာလောက်နက်တဲ့ ကျင်းတစ်ခု တူးကြ။ ၎င်းတွင်း၌ တင်ပျဉ်ခွေ၍ နေနိုင်အောင် အတွင်း၌ကပ်ခံ၍ မြေသားနှင့်အညီ စီမံရမည်။ ၎င်းတွင်း၌ အုတ်တက်နိုင်လျှင် အုတ်ကိုစီမံလော့။ အထက်သို့မပေါ်စေရ၊ မြေသားနှင့်တညီတည်းထားရမည်။ ဖော်ထားလျှင် ဘုရားစေတီကိုမပူဇော်ဘဲ၊ ဆရာ့နေရာကိုသာ ပူဇော်ခြင်းပြုကြလိမ့်မည်။ တွင်းကို စီမံပြီးလျှင် ဆရာတော်အထဲသို့ဝင်မည်။ တပည့်တို့က အလုံပိတ်လိုက်ရမည်'

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၂)

ဟု မိန့်တော်မူသောအခါ တပည့်ဒါယကာများက -

'ကိုယ့်ဆရာသမားကို ဒီလိုတော့ တပည့်တော်တို့ မပြုလုပ်ဝံ့ပါဘုရား' ဟု အဓိပ္ပာယ်ကို နားမလည်သဖြင့် ပြန်၍လျှောက်ကြလေသည်။

ထိုအခါ ဆရာတော်ဘုရားကြီးသည်

'တပည့်တို့ - က္ကရိယာပုတ် လေးပါးလုံး ချုပ်နိုင်အောင် အားထုတ်ကြ၊ ဆရာ့တရားကို ပြသော်လည်း မမြင်နိုင်။ တပည့်ရဟန်းများလည်း အကန်း၊ လူများကလည်း အကန်း။ တပည့်တို့မှာ ဖြူစင်သောအသည်းနှလုံးမရှိကြ။ မည်းသောအသည်းနှလုံးသာ ရှိကြကုန်၏။ ပြန်ကြပေတော့'ဟု မိန့်တော်မူလိုက်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၂)

## တပည့်များကို အခွင့်အထူးများ ပေးသနားတော်မူခြင်း အံ့ဖွယ်



၁၉၂၄ အေဒီ ၁၉၂၄ ဇန်နဝါရီလ ၁၅ ရက်၊ အင်္ဂါနေ့ (၁၂၈၅ ခု၊ ပြာသိုလဆန်း (၁၀) ရက်နေ့)သို့ ရောက်သောအခါ၊ သီတင်းသုံးရာ ဘုရားကျောင်း၏ မြေညီအောက်ခန်း၌ နေရာပြင်စေ၍

'တပည့်တို့ ဆရာ့ကို ဝတ်ကြီး ဝတ်ငယ် ပြုလိုလျှင် ပြုကြပေတော့' ဟု ဝတ်ကြီးဝတ်ငယ် ပြုခွင့်ပေးတော်မူသည်။ ဘုရားကျောင်းအပေါ် ထပ်သို့ကား ဒါယိကာမများကို တက်ရောက်ပူဇော်ခွင့် မပေးတော့ချေ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၃ )

ဆရာတော်ဘုရားကြီးသည် ခန္ဓာမသိမ်းမီ ၇ ရက်မျှသာ တပည့်များ ပြင်ဆင်အပ်သော နေရာ အခင်း ခြင်ထောင် မှို့ခေါင်းအုံးစသည်တို့ကို ယူဆောင်တော်မူပြီး တပည့်များအား ဝတ်ကြီးဝတ်ငယ်ပြုဖို့ရန် ခွင့်ပြုတော်မူသည်။ ဝတ်ပြုရန် ခွင့်ပြုခြားလည်း ဆရာတော်ဘုရားကြီးသည် ရှေးယခင်ကကဲ့သို့ အရှေ့ဘက်ကမ်းသို့ကြွခြင်း၊ ဆွမ်းစားကျောင်းသို့ကြွခြင်း စသည်တို့ကိုကား ပြုမြဲအတိုင်းပင်ပြုလုပ်လျက်ရှိကြောင်းသိရပါသည်။

## ဆရာတော်ကြီး ခွင့်ပြုမှသာ ဓာတ်ပုံရိုက်၍ ပုံထင်ခြင်းအံ့ဖွယ်

ထိုကာလအတောအတွင်း ဆရာတော်ကြီး၏ထူးခြားမှု အဖုံဖုံတို့မှာ အံ့သြ၍မကုန်နိုင်လောက်အောင်ရှိရပေတော့သည်။ ဥပမာအားဖြင့် တင်ပြရပါမည်။

ဆရာတော်ကြီးကို ဓာတ်ပုံရိုက်မည်ဆိုပါစို့၊ ကိုယ့်ဖာသာကိုယ်ခိုးရိုက်လျှင် ဓာတ်ပုံမထင်ပါ၊ ဆရာတော်ကြီးထံခွင့်ပန်၍ ခွင့်ပြုမှသာ ဓာတ်ပုံဆရာသည် ဓာတ်ပုံရိုက်၍ ထင်ပါသည်။ ထိုအချက်သည် အလွန်ဆန်းပါသည်။ ယခုပြောပြပါမည်။

၁၉၂၄ အေဒီ ၁၉၂၄ ဇန်နဝါရီ ၁၅ ရက်၊ အင်္ဂါနေ့ (၁၂၈၅ ပြာသိုလဆန်း ၁၀ ရက်နေ့)၌လျှင် တပည့် ဦးကင်မီသည် မော်လမြိုင်မှ ဂျပန်ဓာတ်ပုံဆရာ နီကိုးကိုခေါ်လာပြီး ဆရာတော်ဘုရား ခန္ဓာသိမ်းလျှင် တပည့်တော်တို့ ကိုးကွယ်ဖို့ရန် ဓာတ်ပုံပေးသနားတော်မူပါဘုရား' ဟု လျှောက်ကြားသောအခါ 'ဆရာ့ပုံကို ဆရာခွင့်မပြုရင် မရဘူး၊ ဦးဇိန ဘုရားဒကာ ဦးမိုကြီးလည်း ဆရာ့ပုံကို လိုချင်လို့ ဆရာခွင့်မပြုဘဲ ရိုက်ယူသည့်တိုင်အောင် မရခဲ့ရှာဘူး'ဟု မိန့်တော်မူလိုက်သည်။

ဂျပန်ဓာတ်ပုံဆရာလည်း ဆရာတော်ဘုရားကြီး အရှေ့ဘက်ကမ်းမှ ကြွလာရာ သိမ်အနီး၌ တစ်ပုံရိုက်ခဲ့သည်။ ဆွမ်းစားကျောင်းအဝင်ဝ၌ တစ်ပုံထပ်၍ ရိုက်ပြန်သည်။ ၎င်းနောက် ဆွမ်းဘုဉ်းပေးပြီး အာလာပသလ္လာပ စကားပြောရာ၌ တစ်ပုံထပ်၍ ရိုက်ပြန်သည်။ ၎င်းသုံးပုံကို မိမိတို့သဘောအလျှောက် ဓာတ်ပုံရိုက်ယူလေသည်။ ၎င်းနောက်မှ ဆရာတော်ဘုရားကြီးသည် ဦးကင်မီအား လူဝဟုခေါ်သဖြင့် -

'လူဝရေ ဆရာ့ပုံကို လိုချင်ရင် ရိုက်ကူးနိုင်ပြီ' ဟု မိန့်တော်မူ၍ သင်္ကန်းတော်ကို အနည်းငယ်ပြင်၍ ပခုံးတော်ကိုဖုံးလွှမ်းပြီး ဓာတ်ပုံအရိုက်ခံတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၄ )

ဂျပန်ဓာတ်ပုံဆရာသည် မိမိတို့သဘောအလျှောက် ရိုက်ကူးထားသော ဓာတ်ပုံသုံးပုံမထင်ဘဲ ဆရာတော်ဘုရားကြီး ခွင့်ပြုတော်မူအပ်သည့် ပုံတော်တစ်ပုံသာ ထင်သည်ကို တွေ့ရသဖြင့်၊ အလွန်



အုံ့အားသင့်ပြီး ဆရာတော်ဘုရားကြီးအား ဖူးမြော်ရန်၊ မော်လမြိုင်မြို့မှ ဆင်းလာခဲ့လေသည်။ သို့သော်လည်း ကိုယ်တော်ကို မဖူးမြင်ရဘဲ၊ ခန္ဓာသိမ်း၍ ကျန်ရစ်ခဲ့သော အဓိဋ္ဌာန်သက်န်းပုံတော်ကိုသာ ဖူးတွေ့ရသောအခါ ဒုတိယမွိ အံ့သြကြီးမက အံ့သြရလေတော့သည်ဟု သိရပါသည်။

## ပြောမကုန် ပြောမယုံ ကြုံမှသိသည့် အံ့ဖွယ်များ

ဤသို့သော အမှတ်မထင် အံ့ဖွယ်ဂုဏ်များ ကြုံရသဖြင့် တပည့်တို့မှာ ပြောမကုန်အောင် ဝမ်းသာရှိကြပါသည်။ ထိုကာလအတောအတွင်း နတ်မှော်ဆရာတော် ဦးဇာဂရအား တန်ခိုးပြတော်မူခဲ့ပါသည်။ ထိုသို့ တန်ခိုးပြတော်မူသည်မှာလည်း ဆရာတော် ဦးဇာဂရအား သာသနာတော်ကို ပိုမိုလေးစားပြီးနောက် မိမိ၏ အရိုက်အရာကို ဆက်ခံရာတွင် ပိုမိုကျင့်ကြံအားထုတ်စိတ် အရှိန်အဟုန်ပြင်းပြင်းထန်ထန် ဖြစ်စေချင်သောကြောင့် တွန်းအားပေးသည့် သဘောမျိုး ဆောင်သည်ဟု ယူဆနိုင်ပါသည်။

ထို့ကြောင့်ပင် နတ်မှော်ဆရာတော် ဦးဇာဂရအား တန်ခိုးပြခြင်းကိစ္စကို ပြန်ပြောရပါသည်။

၁၉၂၄ အေဒီ ၁၉၂၄ ခု ဇန်နဝါရီ ၁၉ ၊ စနေနေ့ (၁၂၈၅ ခု၊ ပြာသိုလဆန်း ၁၄ ရက်နေ့)၌ ဆရာတော် ဘုရားကြီးအား ကြည်ညိုသဖြင့် နိဿရည်းယူ တပည့်ခံနေသော ဦးဇာဂရ ကိုယ်တော်ကြွရောက်လာသည်။ ၎င်းဦးဇာဂရသည် ဘီလူးကျွန်းနတ်မှော်ရွာ၌ သီတင်းသုံး၍ ရွှေကျင်ဂိုဏ်းဝင်ပင် ဖြစ်လင့်ကစား ဆရာတော်ဘုရားကြီး နိဿရည်းခံ တပည့် တစ်ဦးဖြစ်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၅)

၎င်းဘုန်းတော်ကြီး ဦးဇာဂရသည် နောက်ကာလ၌ အလွန်ထင်ရှားသော ဆရာတော်တစ်ပါး ဖြစ်လာပြီး သရဏဂုံ ဝိဇ္ဇာဓရ ထွက်ရပ်ဂိုဏ်း (ခေါ်) ဂျုံးဂျုံးကျ သရဏဂုံ ထွက်ရပ်ဂိုဏ်းသည်လည်း ၎င်းဆရာတော်၏ တပည့်များမှ အဆင့်ဆင့် ကျင့်စဉ်များနှင့်တကွ ပြန့်ပွားလာခြင်းဖြစ်သည်။

၁၉၂၄ **ဆရာတော်ဘုရားကြီးသည် ၎င်း အေဒီ ၁၉၂၄ ဇန်နဝါရီ ၁၉ ၊ စနေနေ (၁၂၈၅ ခု၊ (၁၄) ရက်နေ့) ညသန်းခေါင်လူခြေတိတ်သော အချိန်၌ ဦးဇာဂရ သီတင်းသုံးရာ ကျောင်းငယ်သို့ တံခါးမဖွင့်ဘဲ၊ အလိုအလျောက်ဝင်၍ ဦးဇာဂရ အား နိုးစေပြီးနောက် သိမ်သို့ခေါ်ဆောင်သွားတော်မူသည်။ ဆရာတော်ဘုရား ကြီးသည် ဦးဇာဂရအား ကောင်းကင်၌တည်ခြင်း၊ မြေကိုခွဲ၍ သိမ်၏ကြမ်းပြင်မှ ပေါ်ထွက်ခြင်း စသော အထူးထူးသော တန်ခိုးတို့ကို ပြတော်မူပြီး၊ ဆရာ့ကို ယုံကြည်ပြီလားဟု မိန့်တော်မူသည်။**

ဦးဇာဂရကိုယ်တော်က ‘အဘယ်ကြောင့် တပည့်တော်အား ဤကဲ့သို့ တန်ခိုး များပြရပါသလဲ ဘုရား’ဟု လျှောက်ကြားသောအခါ ကိုယ်တော်မှ ကြွင်းတဲ့ ဆရာ့ တပည့်များဟာ ဆရာဘာပြောပြော ယုံကြည်ကြမည်ဖြစ်သည်။ ကိုယ်တော်ဟာ စာတတ်သဖြင့် ဝေဖန်စဉ်းစားနိုင်းချိန်တတ်သော အသိဉာဏ်နှင့်ပြည့်စုံသည်။ ဆရာ့ အပေါ်မှာ တင်ရှိနေတဲ့ ကိုယ်တော်ရဲ့ သံသယလေးတွေ ပယ်ပျောက်စေလိုတဲ့အတွက် ယခုလိုပြသရခြင်း ဖြစ်သည်’ ဟု မိန့်ကြားတော်မူသောအခါ ဦးဇာဂရကိုယ်တော်က ‘တပည့်တော်အကြွင်းမဲ့ ယုံကြည်ပါပြီဘုရား’ဟု လျှောက်ကြားလေ၏။

ထိုနောက် ဦးဇာဂရအား ‘ယနေ့မှစ၍ ရက်ပေါင်း ၄၀ ပြည့်သောအခါ



မှသာ မုဒုံမြို့သို့ပြန်ကြွလာရမည်' ဟူသောကတိကို ဝန်ခံစေ၍ လပြည့်နေ့၌ မိမိသိတင်းသုံးရာ ဘီလူးကျွန်း၊ နတ်မှော်ရွာသို့ ပြန်ကြွစေတော်မူ၏။

ဦးဇာဂရသည် မိမိခံယူထားသော ကတိအတိုင်း ဆရာတော်ဘုရားကြီး ခန္ဓာသိမ်းပြီး၍ ရက်ပေါင်း ၄၀ ပြည့်သော အခါမှသာ မုဒုံမြို့သို့ ပြန်ကြွလာပြီး၊ ခန္ဓာသိမ်းမှုနှင့်စပ်၍ သို့လော သို့လော ယုံမှားတွေးတောသံသယဖြစ်နေကြသော ရဟန်းရှင် လူပရိသတ်အပေါင်းတို့အား မိမိသိရှိ ရသမျှကို ဟောဆိုဆုံးမခြင်းဖြင့် ယုံမှားပယ်ဖျောက်ကာ ကြည်ညိုမှုကို တိုး၍ တိုး၍ ဖြစ်ပွားစေတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၆ )

## ဆရာတော်ကြီး ခန္ဓာသိမ်းတော်မူခြင်း အံ့ဖွယ်

ဂျိုးဂျိုးကျ ဆရာတော်ဘုရားကြီးနှင့် စပ်လျဉ်း၍ ဂျိုးဂျိုးကျ ဆရာတော်ဘုရားကြီးအကြောင်းကို ကြားလျှင်ကြားခြင်း အလွန်အံ့ဩမိပါသည်။ သိသူများက ကိုယ်တွေ့မျက်မြင် ပြန်ပြောပြသောအခါ ပို၍အံ့ဩရပါသည်။ တွေ့ဖူးသူများက ပြောပြသည်မှာ -

ဦးခေါင်းတော်နှင့်တကွ ခြေဆုံးခေါင်းခြုံ၍ ကျိန်းစက်နေသည့်ဟန်၊ သင်္ကန်းလတ် သင်္ကန်းတော်ကိုကြည့်လျှင် တကယ့်အမှန် ကျိန်းစက်နေသည်ထင်ရသည်။ လက်ဖြင့်ဖိကြည့်လျှင် သင်္ကန်းတော်ပိဝင်သွားပြီး လက်ပြန်ရုပ်လိုက်လျှင် ဖောင်းမြဲဖောင်းကြွလာသည်။

၁၉၂၄ ထိုအံ့ဩဖွယ်ဖြစ်ရပ်သည် ခန္ဓာသိမ်းတော်မူသည့်နေ့ အေဒီ ၁၉၂၄ ခု၊ ဇန်နဝါရီ ၂၂ ရက်၊ အင်္ဂါနေ့ (၁၂၈၅ ခုနှစ်၊ ပြာသို လပြည့်ကျော် (၂) ရက်၊ တနင်္လာနေ့)တွင် ဖြစ်သည်ဟူ၍ ဖြစ်ပါသည်။

ဤရွှေ့ဤမျှဖြင့် မွန်ပြည်နယ် မုဒုံမြို့ရှိ ဂျိုးဂျိုးကျဆရာတော်ဘုရားကြီး၏ ဘဝရုပ်ပုံလွှာသည် ကြည်ညိုဖွယ်ရာ အံ့ဩဖွယ်ရာဖြစ်ကြောင်းထင်ရှားလောက်ပါပြီ။ သက်တော်ထင်ရှား ဘုရားရှင်၏ ကိုယ်စား တပည့်သားသံဃာတော်တို့၏ ဂုဏ်ရည်သည်လည်း ကြည်ညိုဖွယ် အံ့ဖွယ်ဖြစ်ကြောင်း ထင်ရှားလောက်ပါပြီ။

(ကျမ်းကိုး၊ အကျယ်ကို သိလိုပါလျှင် မွန်ပြည်နယ် မုဒုံမြို့ ဂျိုးဂျိုးကျ ပထမတောရ ဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကထာကိုလည်းကောင်း၊ ၁၉၆၉ ခုနှစ် ဖေဖော်ဝါရီလ ၁ ရက်နေ့ ၁၃၃၀ ခု၊ တပေါင်းလပြည့်၊ ရက်စွဲနှင့် ရန်ကုန်မြို့၊ ၄၆ လမ်း၊ ရွှေသိန်းပုံနှိပ်တိုက်ထုတ် မော်လမြိုင် ခရိုင် မုဒုံမြို့၊ ဂျိုးဂျိုးကျဆရာတော်ဘုရားကြီး စီရင်အပ်သော နမောဝိမုတ္တိရသာရှုဖွယ်၊ နိယျာနိကကျမ်း၊ စိတ္တဂဏ္ဌိကျမ်းများ တွင် ၁၂၈၂ ခုနှစ်ထုတ် မူအတိုင်း ပြန်လည်ဖတ်ရှုနိုင် ပါသည်။ ရှာဖွေဖတ်ရှုနိုင်ပါသည်။ ယခုကား မူရင်းအတိုင်း ကုသိုလ်ရရှိ ရည်စူး၍ သင့်ရုံမျှသာ ပြန်လည်ကူးယူ ဖွင့်ဖော်တင်ပြခြင်းသာ ဖြစ်ပါသည်)

# စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံ ဆရာတော်ဘုရား

## အေဒီ ၁၈၅၈ – ၁၉၁၉ (၁၂၂၀ –၁၂၈၁)





လယ်တီဆရာတော်ဘုရားကြီး အကြောင်းကို လေ့လာရင်း စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံ ဆရာတော်ဘုရားကြီးအား စတင်လေ့လာမိခြင်းဖြစ်သဖြင့် ကံကောင်းလှပါသည်။

ဆရာတော်အား အနာဂါမ်ကြီးဟူ၍သမုတ်ခဲ့ကြ၏။ ကာမဘုံက မလွန်သေးဟုလည်း သိမြင်သူများကဆိုကြသည်။ မည်သို့ဆိုစေ ဆရာတော်ကား ဇွဲ၊ လုံ့လ ကြီးမားလှပေ၏။ ပျံတော်မူခါနီး မမာမကျန်းရှိစဉ် ပို၍ပင်အားထုတ်တော်မူ၏။ ရဟန္တာမဖြစ်သမျှ ဤဂူမှမထွက်တော့ပြီဟုပင် တစ်ဆင့်တက်ကာ သမ္မပ္ပဓာန် လုံ့လဖြင့် အဓိဋ္ဌာန်တော်မူသည်။

ရောဂါအခြေအနေမှာ တစ်နေ့တခြား ဆိုးရွားလာသဖြင့် မကြည့်ရက်သော တပည့်ကြီးများက ဂူမှထွက်၍ ဆေးဝါးကုသခံယူရန် အတန်တန်လျှောက်ထားကြ၏။ လျှောက်ထားကြသော်လည်းမရ။ နောက်ဆုံး တပည့်ကြီးများက လယ်တီ ဆရာတော်အား အကြောင်းစုံလျှောက်ထား၍ အကူအညီတောင်းကြရ၏။ လယ်တီဆရာတော်ကိုယ်တိုင် ဂူထဲသို့ကြွရောက်၍ပြောရာ -

**တပည့်တော် အဓိဋ္ဌာန်ရှိနေလို့ပါဟု တောင်းပန်လျှောက်ထား၍ လယ်တီဆရာတော်လည်း ကျန်းမာရေးအခြေအနေများကိုကြည့်၍ အထပ်ထပ် စဉ်းစားပြီးနောက် အသင့်ပါလာသော ဦးပဓ္ဓင်းများဘက်သို့လှည့်၍ -**

**ကဲ - မောင်ပဉ္စင်းတို့ အပြင်ထမ်းပင့်ကြ အဓိဋ္ဌာန်တာက ဦးဥတ္တမ၊ ဂူအပြင်ထုတ်တာက လယ်တီဆရာတော်ပဲဟု ပြောပြောဆိုဆို ကျောင်းသို့ပင့်ဆောင်စေခဲ့၏။**

(ကျမ်းကိုး၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ ဓမ္မာစရိယဦးဌေးလှိုင်၊ စာ ၃၅၂ )

ဆရာတော် ပျံလွန်တော်မူသည့်နောက် နေရာရှင်းကြသောအခါ အမြဲသုံးသည့် ခေါင်းအုံး အောက်တွင် ဆရာတော်ကိုယ်တိုင် ရေးသားခဲ့သည့် ၁၂ နှစ်တာ အလုပ်ခွင် မှတ်တမ်းကို အံ့အားသင့်စွာ တွေ့ကြရ၏။ အိပ်မက် ၁၆ မျိုးနှင့် နိမိတ်များ အတွေးအမြင်များ ပါဝင်လေသည်။ ထူးခြားသည်မှာ ဆရာတော်၏ အမှာစာ၌ပင် -

> ရဟန်းရှင်လူ သီလရှင်အပေါင်းတို့ သမထ ဝိပဿနာ တိုးပွားစေခြင်းငှာ တပည့်များက သထမ ဝိပဿနာ စာအုပ်မှာထည့်၍ ပုံနှိပ်ရမည်ဟု ရေးသားမှာထားတော်မူခဲ့၏။ သို့ရာတွင် ဆရာတော်ရေးသော မည်သည့်စာအုပ်တွင်မျှဤမှတ်တမ်းကိုမတွေ့ရ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅၃)

ဆရာတော်၏ မှတ်တမ်းတွင် ပထမ မဂ်ရကြောင်းကို အောက်ပါအတိုင်း အံ့ဩကြည်ညိုဖွယ်ရာ ဖတ်ရှုရပါသည်။

၁၉၀၀ **ဇင်းနောက် ရှိသော . . . ၆၂ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၈ ရက်၊ နေ့ ၄ နာရီကစ၍ တစ်ညလုံး မိုးလင်းသည့်တိုင်အောင် နိဗ္ဗာန်၌သာ အာရုံပြုလျက် မဂ်လေးပါးလုံးရပြီဟု ထင်နေပြီးလျှင် မိုးလင်းသောကာလမှ မဂ်လေးပါးလုံး မရမှန်း သိသည်။**

**ပအ ၊ ထမ၊ မအ၊ ဂအ - ရအ။ (ပထမ မဂ္ဂ - ရပြီဟု ဆိုလို၏။)**

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅၄)



ဥင်းနောက် ဆရာတော်၏ မှတ်စုတွင် ဆရာတော်သည် ဒုတိယမဂ် ရကြောင်း သကဒါဂါမိ ဖြစ်ကြောင်းကို အောက်ပါမှတ်စုအရ ကြည့်ညှိရပါသည်။

၁၉၀၄ ၁၂၆၆ ခုနှစ်၊ တပို့တွဲလဆန်း ၈ ရက်၊ တနင်္ဂနွေနေ့ ည ၆ နာရီ ကျော်ကျော် သစ္စာလေးပါးကို သိသည်။ ငလျင် နှစ်ကြိမ်လှုပ်၏။

ဒဥ၊ တဤ၊ ယအ၊ မအ၊ ဂအ၊ ရအ။ ( ဒုတိယမဂ္ဂရဟု ဆိုလိုသည်။ ထိုနှစ် သကဒါဂါမိဖြစ်၏။)

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅၄)

ထိုအချက်အလက်များနှင့်စပ်လျဥ်း၍ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ ကျမ်းပြုဓမ္မာစရိယ ဦးဌေးလှိုင်က အောက်ပါအတိုင်းမှတ်တမ်းတင်ခဲ့ပါသည်။

၁၉၀၀ ယင်းသို့ဆိုသော် ဆရာတော် ကိုယ်တိုင် မှတ်တမ်းပြုခဲ့သော ပထမမဂ်ရ၏ (၁၂၆၂)။

၁၉၀၈ ဒုတိယ မဂ်ရ၏။ (၁၂၆၉ )ဟု တိုက်ရိုက် ရေးသားချက်မျိုး နောက်ကာလတွင် မတွေ့ရသဖြင့် သကဒါဂါမိမျှသာ ဖြစ်သည်ဟုကား မမှတ်ယူသင့်ချေ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅၈)

ဤသို့လျှင် အလွန်ထူးခြားသော မှတ်တမ်းများနှင့်တကွ ဆရာတော်ကြီးအား အနာဂါမိကြီးဟူ၍ သမုတ်ကြသည်ဟုလည်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅၂)

ယင်းမှတ်တမ်းများကို စစ်ကိုင်းတောင်ရိုး၊ ဝေဇယန္တာချောင် ဆရာတော် အရှင်မဟာ သဓပဏ္ဍိတ၏ ကျေးဇူးကြောင့် ၁၃၃၂ ခုနှစ်၊ တပို့တွဲလ (၁၀၊ ၂၊ ၇၁)ထုတ် ဓမ္မဗျူဟာစာစောင် (၉ - ၁၀ နှင့် ၁၀ - ၅ )တို့၌ ဖတ်ရှုရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅၃)

မဟာဂန္ဓာရုံ ဆရာတော်ဘုရားကြီးသည် အာရုံနိမိတ်နှင့် အိပ်မက်ကြီး ၁၆ မျိုးကို အထူး မှတ်သား၍ မည်သူ့ကိုမျှ အသိမပေးဘဲ နှစ်ပေါင်းများစွာ ခေါင်းအုံးအောက်၌ လျှို့ဝှက်ထားခဲ့ကြောင်း သိရှိရပါသည်။ ထိုအိပ်မက်ကြီး ၁၆ ချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်ဟု သိရပါသည်။

၁။ ခြေ၌ ခြတက်၍ ခြကို နင်းမိမည်စိုးသောကြောင့် ကောင်းကင်မှနေ၍ ခြကို ခါပစ်ရသည်ကို မြင်မက်ခြင်း။

၂။ မြစ်ကို အလျားလိုက်ဆန်သော သင်္ဘောစီးရအောင် လိုက်သော် သင်္ဘောကို မိရုံမျှသာ ရှိ၍ မစီးရဟုမြင်မက်ခြင်း။

၁၈၉၉ (ဥင်း အိပ်မက်အရာမှာ သူငယ်အဖြစ်မှစ၍ ရဟန်းနှစ်ဆယ့်နှစ်ဝါ တိုင်အောင် ဘုရား ဆုပန်၍နေသည်ကို ၁၂၆၁ ခုနှစ်သို့ ရောက်သောအခါ ဥင်းကဆုန်လကစ၍ ဝါဆို လပြည့်ကျော်တိုင်လျှင် သံသရာဘေးကို အလွန်ကြောက်သောကြောင့် ဘုရားဆုကို မပန်တော့၊ ထိုဘုရားဆုကို မပန်နိုင်ခြင်းအကြောင်းဟုထင်သည်။)

၃။ မြစ်လယ်သို့ရောက်၍နေစဉ် မြစ်တစ်ဖက်သို့ လက်ပစ်ကူးမည်လိုလို၊ ဖောင်ဖွဲ့၍ ကူးမည်လိုလိုနေဆဲ လှေငယ်တစ်စီးလာ၍ ထိုလှေငယ်နှင့်စီးလျက် မြစ်တစ်ဖက်သို့ ရောက်သည်ဟုမြင်မက်ခြင်း။



(၎င်း အိပ်မက်အရမှာ ဒုတိယဝါဆိုလပြည့်ကျော်မှသာ သာဝကဆုကို ပန်၍ ထိုသာဝကဆုကို ပန်ဆင်နိုင်ခြင်းအကြောင်းဟု ထင်သည်။)

၄။ ဘုရားရှင်ကို ကိုယ်တိုင်ကိုယ်ကျဖူးတွေ့ရ၍ ဘုရားရှင်မျက်မှောက် နိဗ္ဗာန်ရောက်အောင် ဝိပဿနာကို အားထုတ်ရသည်ဟုမြင်မက်ခြင်း။

၅။ မစင်စွန့်ဆဲ ကုဋီနှင့်တကွ တစ်ပါးသို့ရောက်၍ မစင်လိမ်းကပ်လေသလောဟု ကြည့်လျှင် မစင်မလိမ်းမကပ်ဟုမြင်မက်ခြင်း။

၆။ နွံ၌ နှစ်ယောက်သော သူသည် လက်တစ်ဖက် တစ်ချက်ကိုကိုင်၍ နွံထဲမှတက်သည်ဟု မြင်မက်ခြင်း။

၇။ အေးသောအခါ ပူသောကမ္မဋ္ဌာန်းကျောင်း၌နေ၍ ပူသော ကမ္မဋ္ဌာန်းကို အားထုတ်ရမည်ဟု မြင်မက်ခြင်း။

၈။ သည်အရောင်သည် အဘယ်ရောင်နည်းဟုမေးလျှင် မဟာဂန္ဓာရုံဘုန်းကြီး၏ သီလအရောင်ဟုဆိုပါသည်။ အဘယ်ကျအောင် တောက်သနည်းဟုမေးလျှင် အကနိဋ္ဌ ဗြဟ္မာ့ပြည်တိုင်အောင် တောက်ပါသည်ဟုဆို၍ မြင်မက်ခြင်း။

၉။ နိဗ္ဗာန်ကို တစ်ဝီထိသာ လိုတော့သည်။ နိဗ္ဗာန်ကို သိမြင်အောင် ဥပေက္ခာ ဝီထိချရမည် မြင်မက်ခြင်း။

၁၀။ ပူ - ရုပ်နာမ်၊ အေး- နိဗ္ဗာန်၊ ဖေ- စိန္တေယျ၊ မေ- တရား၊ သား- သံဃာက အေး နိဗ္ဗာန်ကို လျင်မြန်စွာ ရအောင် ရုပ်နာမ်ရှိစဉ် မြတ်တရားကို ကြိုးစား၍ အားထုတ်။ အသက်ဇီဝိန် မရှိသည် ဘုရားဟောကြားသည့် တရား။ ( ၁၂၇၁ ခု၊ တော်သလင်း လဆန်း ၃ ရက်၊ အင်္ဂါနေ့၊ တစ်ကြိမ် မက်သည်။ ၎င်းလဆန်း ၁၀ ရက်၊ အင်္ဂါနေ့ တစ်ကြိမ်မက်သည်။)

၁၁။ ဖလသဿတံ အဓိဝစနံ။ ဇတံ = ဤသမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ စသော မဂ္ဂင်ဖောင်ကြီးသည်။ ဖလဿ = အကုသိုလ်တည်းဟူသော မြေပြင်အရပ်ဝယ် မငြိကပ်ငြား ကောင်းကင်သွားသော အရဟတ္တဖိုလ်၏။ အဓိဝစနံ = အမည်ပေတည်း။

(၎င်းလဆုတ် ၉ ရက်၊ အင်္ဂါနေ့ည နာရီပြန် တစ်ချက်တီးကျော် မြင်မက်သည်။)

၁၂။ ပူလှချည့်၊ လောင်လှချည့်၊ ပူလှချည့်၊ လောင်လှချည့်၊ သံယောဇဉ်ပြတ်လျှင်အေး၏။ (၎င်းလဆုတ် ၂ ရက် အင်္ဂါနေ့ မက်သည်။)

၁၃။ ၁၂၇၂ ခုနှစ်၊ ဝါခေါင်လဆန်း ၆ ရက်နေ့ ည ၂ ချက်တီးကျော်လောက် မြင်မက်သော အိပ်မက်မှာ တောင်ကြီးတစ်လုံး၏ နံဘေးတွင် မဟာဂန္ဓာရုံဘုန်းကြီး အမှူးပြု၍ လမ်းဖောက်ရာ ပေါက်သောအခါ ၎င်းလမ်းအသွား တောင်နံပါးတွင် မဟာဂန္ဓာရုံဘုန်းကြီးကို နှိပ်စက်မည့် ရန်သူနောက်ကလိုက်လာရာ မီသောအခါ မဟာဂန္ဓာရုံဘုန်းကြီးအား ပုတ်ခတ်မည်အပြုတွင် မဟာဂန္ဓာရုံဘုန်းကြီးက တွတ်၍ချလိုက်သဖြင့် ဘယ်အခါမှ မတက်နိုင်သော ချောက်ထဲသို့ကျ၍သွားသည်။ ကျသောအခါ မဟာဂန္ဓာရုံဘုန်းကြီး၏ တပည့်များက အောင်ပြီအောင်ပြီဟု ကြွေးကြော်ကြ၏။ ၎င်းလမ်းအဆုံးတွင် ရေအလျဉ်တွေ့၍ ရေချိုးရ၊ သောက်သုံးကြရကုန်၏။

၁၄။ ၎င်း ခုနှစ်၊ သီတင်းကျွတ်လကွယ်နေ့၊ မဟာဂန္ဓာရုံ ဘုန်းကြီးသည် တစ်ကိုယ်လုံး



ဖွေးဖွေးဖြူသော ဆင်ဖြူစီးလျက် ဘုရားပေါ်သို့ အရှေ့မျက်နှာက တက်လျက် ၎င်းဘုရားပေါ်ကနေ၍ အောက်ကိုကြည့်သောအခါ ရေတွေမြင်ရသည်ဟုမက်ခြင်း။

၁၅။ ၎င်း ခုနှစ်၊ တန်ဆောင်မုန်းလဆန်းတွင် ရွှေပြာသဒ်ကြီး လေးဆောင်၏ အလယ်က ပလ္လင်နှင့်တကွ ရွှေပြာသဒ်ကြီး လေးဆောင်ရသည်ဟုမြင်မက်ခြင်း။

၁၆။ ၎င်း လဆန်းမှာ ထီးဖြူလေးစင်းရသည်ဟုမြင်မက်ခြင်း။

ဤကား မဟာဂန္ဓာရုံ ဆရာတော်ကိုယ်တိုင် ရေးမှတ်ထားခဲ့သော အိပ်မက်နှင့် အဓိပ္ပာယ်ကောက်ပုံများဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅၆-၃၅၇)

ဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကို လေ့လာသောအခါ အောက်ပါအချက်လက်များ မှတ်သားဖွယ်တွေ့ရှိရပါသည်။

၁၈၅၈ မကွေးမြို့၌ ၁၂၂၀ ပြည့်နှစ် တော်သလင်းလဆုတ် ၄ ရက်၊ တနင်္ဂနွေနေ့ (မြန်မာနာရီ) တစ်ချက်တီးကျော်ဖွားသည်။

မကွေးမြို့ ဂုံတော်ဆရာတော် ဦးကေသရထံ၌ သာမဏေ (၅) ဝါ၊ ရဟန်း (၅) ဝါ နေခဲ့သည်။ ဘွဲ့တော်မှာ အရှင်ဥတ္တရ ဖြစ်သည်။

အိမ်မဲ မြို့ အရှင် ပုညထံ၌ (၁) ဝါ နေခဲ့သည်။

ဒေးဒရဲမြို့ ချောင်းဖျားရွာ အရှင်ဝိမလ ထံ၌ (၃) ဝါ နေခဲ့သည်။

ကွမ်းခြံကုန်းမြို့ မဟာဝုန်ဆရာတော် အရှင် ဇိနထံ၌ (၂) ဝါ နေခဲ့သည်။

မန္တလေးမြို့ အရှေ့ပြင် မဟာဝိသုဒ္ဓါရုံ ဆရာတော်ထံ (၄) ဝါ နေခဲ့သည်။

၁၈၉၆ ၁၂၅၇ ခုနှစ် ၁၈ ဝါအရတွင် ဝါဆိုလဆန်း ၄ ရက်နေ့၌ စစ်ကိုင်းတောင်သို့ တောထွက်တော်မူသည်။

၁၉၀၇ ၁၂၆၈ ခုနှစ် ၁၁ နှစ်ကြာသော် အရှေ့ဂန္ဓာရုံသို့ ပြောင်းရွှေ့ သီတင်းသုံးသည်။

၁၉၀၈ ၂ ဝါ သာ နေပြီး မူလချောင်းသို့ ၁၂၇၀ ပြည့်နှစ် ဝါဆိုလဆန်း ၁ ရက်နေ့၌ ပြောင်းရွှေ့ရပြန်သည်။

၁၉၀၀ ၁၂၇၂ ခုနှစ် ဝါကပ်မည့် နေ့တွင် ဝက်ပါတောင်၊ မဟာသုခချောင်းသို့ ကြွ၍ လိုဏ်ဂူအတွင်း၌ ဝါကပ်တော်မူသည်။

၁၉၁၉ ၁၂၈၁ ခုနှစ် ဝါခေါင်လဆုတ် ၈ ရက်နေ့ သက်တော် ၆၁ နှစ်၊ သိက္ခာတော် ၄၂ ဝါအရတွင် မဟာသုခ ချောင်း၌ပင် ပျံလွန်တော်မူသည်။

ထိုအချက်တို့ကို ရွှေကျင်နိကာယ သာသနာဝင်သမိုင်းတွင် ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတ မထေရ်မြတ်က မှတ်တမ်းတင်ခဲ့ကြောင်း လေ့လာဖတ်ရှုရပါသည်။ ထိုစာတွင် -

ရဟန်းတရားကို ဝိပဿနာ ယောဂီစစ်အနေဖြင့် အားထုတ်တော်မူသည်။ သို့ဖြစ်၍ ထိုအချိန်က နိုင်ငံထက်အောက်ရှိ ရဟန်း ရှင်လူတို့ မစဲအောင် လာရောက် ဆည်းကပ်နည်းခံကာ တရားအားထုတ်ကြသည်။

မဟာဂန္ဓာရုံ ဆရာတော်ဘုရားလက်ထက်၌ ရွှေကျင်ဂိုဏ်းသံဃာနှင့် ကျောင်းလည်း စစ်ကိုင်းတောင်ရိုး၌ တိုးပွားစည်ပင်လာသည်။ မဟာဂန္ဓာရုံ



ဆရာတော်ဘုရားသည် ဘုရားရှင်သာသနာတော်နှင့် ရွှေကျင်သံဃာကို စောင့်ရှောက်တော်မူကြောင်းသိရှိရပါသည်။

(ကျမ်းကိုး။ ရွှေကျင်နိကာယ သာသနာဝင် သမိုင်းတွင် ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ် က မှတ်တမ်းတင်ခဲ့ ကြောင်း လေ့လာဖတ်ရှုရပါသည်။ စာမျက်နှာ ၃၄၁ ကို ကြည့်ပါ။)

ဆရာတော်ကြီးသက်တော်ထင်ရှားရှိစဉ်အခါက ထူးခြားစွာ ကျင့်ကြံအားထုတ်ခဲ့သဖြင့် ထူးခြားစွာ အံ့သြကြည်ညိုဖွယ်ရာများစွာရှိခဲ့ကြောင်းကို တစ်စွန်းတစ လေ့လာတွေ့ရှိရမှုနှင့်ပင် အလွန်ကြည်ညိုဖွယ်ရာ ကောင်းလှပါသည်။

**အခါတစ်ပါး မဟာဂန္ဓာရုံ သိမ်အတွင်း သံဃ ဥပုသ်ပြုကြရာ၌ ဆရာတော်လည်း အခြားမထေရ်ကြီးများ တစ်တန်းတည်း သီတင်းသုံးတော်မူရာ ဆရာတော်၏ ကိုယ်ဝတ်သင်္ကန်း လွတ်နေသော ပခုံးလက်ရုံးသားများမှ အရောင်များ ထွက်နေသည်ကို နောက်တန်း၌နေသော ဦးအဂ္ဂဓမ္မက ဖူးမြင်နေကြောင်းအမိန့်ရှိဖူးသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၄၇)

**တစ်နေ့သောအခါ ဆရာတော်က အတွင်းနေ တပည့် ဦးသဒ္ဒမ္မအား ဂူတွင်း၌ထားသည့် အသုံးပြုလိုသော စာအုပ်များယူပေးရန်အမိန့်ရှိသည်။ ဂူတွင်း၌ မှောင်နေ၍ မမြင်ရကြောင်း လျှောက်သောအခါ ဆရာတော်ဂူတွင်းသို့ကြွလာရာ လိုဏ်ဂူတစ်ခုလုံး လင်းထိန်သွားသည်။ ဆရာတော်က မည်သူ့အားမျှ မပြောရဟု တားမြစ်တော်မူကြောင်းသိရပါသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၄၇)

သို့သော်လည်း ထိုစဉ်အခါက ကိုယ်တွေ့မျက်မြင် ကြုံခဲ့ရသော ချမ်းအေးဆရာတော်ကြီး ဦးသဒ္ဒမ္မသည် ဆရာတော်ဘုရားကြီး၏ တားမြစ်ချက်အရ မည်သူ့အားမျှ မပြောခဲ့သော်လည်း ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသောအခါ အောင်မြေသာစည် ဆရာတော် ဦးအဂ္ဂဓမ္မအား ပြန်လည်မိန့်ကြားခဲ့ကြောင်း ထပ်ဆင့် သိရှိရပါသည်။

(ကျမ်းကိုး။ (၁) မဇ္ဈိမစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ၊ နဝမအကြိမ်၊ ၁၉၉၃ ခု၊ မေလ၊ ဗုဒ္ဓအသံ စာပေ၊) (၂) ရွှေကျင်နိကာယ သာသနာဝင် သမိုင်းတွင် ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ်က မှတ်တမ်းတင်ခဲ့ကြောင်း လေ့လာဖတ်ရှုရပါသည်။ စာမျက်နှာ ၃၄၁ ကို ကြည့်ပါ။)

၁၉၁၉ ၁၂၈၁ ခုနှစ် ဝါခေါင်လဆုတ် ၈ ရက်နေ့ သက်တော် ၆၁ နှစ်၊ သိက္ခာတော် ၄၂ ဝါအရတွင် မဟာသုခ ချောင်၌ပင် ပျံလွန်တော်မူသည်။

(ကျမ်းကိုး။ ရွှေကျင်နိကာယ သာသနာဝင် သမိုင်းတွင် ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတထေရ်က မှတ်တမ်းတင်ခဲ့ကြောင်း လေ့လာဖတ်ရှုရပါသည်။ စာမျက်နှာ ၃၄၁ ကို ကြည့်ပါ)

# ရဟန္တာကုန်း ဆရာတော်ဘုရားကြီး

အေဒီ ၁၈၅၈ – ၁၉၃၁ (၁၂၂၀–၁၂၉၃)





ပဋိပတ္တိသာသနာတိုးတက်ပွားများခြင်း အကျိုးတရား ဖြစ်ပွားစေနိုင်သည်ဟူသော ရည်ရွယ်ချက်ဖြင့် ရဟန္တာကုန်းဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကို ပြုစုခြင်းဖြစ်သည်ဟု သိရပါသည်။ တောင်တွင်းကြီးမြို့ သီရိမင်္ဂလာတိုက်သစ်၊ မဟာနာယက ဘဒ္ဒန္တရာဇိန္ဒဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် အကျဉ်းအားဖြင့် ရေးသားတော်မူခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ဂ)

၁၉၆၇ ၎င်းနောက် ယိုးဒယား သာသနာပြု အဘိဓမ္မာ ကထိက ဓမ္မာစရိယ ဆဋ္ဌသံဂီတိသောဓကဆရာတော် ဘဒ္ဒန္တတေဇိန္ဒက တာဝန်ယူ စစ်စီပုံနှိပ်ထုတ်ဝေကြသဖြင့် ၁၃၂၉ ခု၊ တော်သလင်းလတွင် ရဟန္တာကုန်းဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကထာကို သိခွင့်ရခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ဃ)

**ဇာတိ**

တောင်တွင်းကြီးမြို့မှ အနောက်မြောက် ၁၀ မိုင်၊ မြန်မာခေါ် ၅ တိုင်မျှ ဝေးကွာသောဒေသ၌ ချောင်းရိုးခေါ်သော ရွာကြီးတစ်ရွာရှိလေသည်။ ယင်းချောင်းရိုးရွာသည်ပင်လျှင် ရဟန္တာကုန်းဆရာတော်ဘုရားကြီး၏ မွေးဖွားရာဌာနဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၉ )

**ဖွား**

၁၈၅၈ အေဒီ ၁၈၅၈ ခု (ကောဇာ သက္ကရာဇ် ၁၂၂၀ ပြည့်နှစ် ဒုတိယဝါဆို လဆန်း ၆ ရက် သောကြာနေ့) ညနေ ၄ ချက်တီးကျော် မင်္ဂလာအချိန်တော်၌ ဖခမည်းတော် ဦးဘိုးချိတ် မယ်တော် ဒေါ်မယ်မောက်တို့မှ ထူးမြတ်သော သားရတနာ အဖြစ်ဖြင့် ဖွားမြင်တော်မူခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၀ )

**ငယ်နာမည်**

သူငယ်ကလေးကိုလည်း မောင်မြတ်သာထွန်းဟု မိခင်ကိုယ်တိုင် နာမည်မှည့်ခဲ့သည်ဟူ၏။ ထို့ကြောင့် မောင်မြတ်သာထွန်းဟူသောအမည်မှာ အိပ်မက်က လမ်းညွှန်သော အမည်ပင်ဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၁ )

**ပထမ ဆရာ**

ပထမဦးဆုံး မျက်စိဖွင့်ပေးလိုက်သော ကန့်ကူလက်လှည့်ဆရာမှာ ဝက်ကောင်းဂိုဏ်းထောက်ဆရာတော် ဦးဣန္ဒပင်ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၂ )

အသက် ၁၅ နှစ်အရွယ်သို့ ရောက်သောအခါ အသိဉာဏ်များ ဆထက်ပွားတိုး အဝါးဝစေခြင်း အကျိုးကို မျှော်ကိုးရည်ရွယ်လျက် ကံရည်နှစ်ဂိုဏ်းချုပ် ချောင်းရိုးကျောင်းကြီး ဆရာတော်ဦးလာဘနှင့် မန္တလေးနေပြည်တော်သို့ ခိုလှုံလိုက်ပါသွားပြီးလျှင် ပဋ္ဌမသင်္ဂါယနာတင် ဘဝရှင်မင်းတရားကြီး လက်ထက်၌ ပထမစာတော်များကို ၁၆ နှစ်သားအရွယ်ကပင် မှန်ကန်စွာပြန်ဆိုတော်မူနိုင်ပေသည်။

ထိုကြောင့် နေရင်းဇာတိ အမိအဖဖြစ်သော ဦးဘိုးချိတ် ဒေါ်မယ်မောက်တို့သည် အသက်ရှည်



သမ္မ ကာလပတ်လုံး အသေးသုံး သသမေဒစာရင်း အခွန်တော်ငွေများ ထမ်းဆောင်ခြင်းမှ လွတ်ငြိမ်းချမ်းသာခွင့်ကိုရကြလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၂ )

သာသနာကို လူရာဝင်စ ပြုလာသော မောင်မြတ်သာထွန်း ၁၆ နှစ်သားအရွယ်တွင် ဘဝရှင်မင်းတရားကြီးက ထုံးစံအလိုက် ရှင်ပြုမင်္ဂလာသဘင်ကျင်းပ၍ သာသနာတော်တွင်းသို့ ရှင်သာမဏေအဖြစ်ဖြင့် သွတ်သွင်းချီးမြှင့်ခဲ့လေသည်။ သာမဏေဘွဲ့သည်ကား ရှင်သုဘောဂဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၃)

၁၈၇၇ ပါရမီရှင်ဖြစ်သော သာမဏေ ရှင်သုဘောဂ အသက် ၂၀ ပြည့်သောအခါ နန်းမတော်ကြီး၏ ရွှေထီးဆောင်း မှန်နန်းပျိုတော် မအီက မင်္ဂလာရဟန်းခံပွဲကြီးကို ဆင်နွှဲကျင်းပပြီးလျှင် ထောက်ပံ့လှူဒါန်းခြင်းပြုလေသည်။

၁၈၇၇ ဤကား အေဒီ ၁၈၇၇ ၊ နိုဝင်ဘာလ ၁၄ ရက် ဗုဒ္ဓဟူးနေ့ (ကောဇာသက္ကရာဇ် ၁၂၃၉ ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၀ ရက်နေ့)တွင် ရဟန်းအဖြစ်သို့ ရောက်သော အရှင်သုဘောဂ၏ ရက်ချုပ်မှတ်တမ်းအရ သိရှိရသောအကြောင်းပေတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၃)

ရဟန်း ၅ ဝါရသည်အထိ မန္တလေး ရတနာပုံ နေပြည်တော်၌ ပရိယတ္တိကျမ်းဂန်တို့ကို စွမ်းဉာဏ်ရှိသလောက် ထွင်းဖောက်အားထုတ်ပြီးကာ မန်းနဂရာမှ ထွက်ခွာခဲ့၍ မြို့လုလင်၏ အရှေ့တောင်၊ ၁ မိုင်ခန့်ဝေးကွာသည့် ပထမ ခင်သာကျောင်းသို့ ဆိုက်ရောက်တော်မူသည်။

ဆရာတော်သည် ထိုပထမ ခင်သာတောရကျောင်း၌ ၇ ဝါတိုင်တိုင် ဝါဆိုသီတင်းသုံးတော်မူခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၅ )

၁၈၇၇-၁၈၈၅ ရဟန်း သိက္ခာ ၅ ဝါမျှသာ ရှိသေးသော အရှင်သုဘောဂသည် ၇ ဝါကြာမျှ ပဥ္စမခင်သာတောရကျောင်း၌ သီတင်းသုံးနေထိုင်တော်မူသည်။ အေဒီ ၁၈၇၇ မှ ၁၈၈၅၊ (၁၂၃၉ မှ ၁၂၄၆)အထိဖြစ်သည်။

၁၈၉၀ ပြီးသည့်နောက် ၁၂ ဝါမြောက်ရရှိသောအခါ အေဒီ ၁၈၉၀ (၁၂၅၁ ခု)တွင် တောင်တွင်းကြီးမြို့၏ အရှေ့မြောက်ဒိသာ မင်္ဂလာကန်တော်ကြီး၏ မြောက်ဘက် ဒုတိယ ခင်သာ တောရကျောင်းတိုက်သို့ ဆိုက်ရောက်တော်မူသည်။

၁၉၀၉ ထိုဒုတိယ ခင်သာတောရကျောင်း၌ အေဒီ ၁၉၀၉ ခုနှစ်၊ (၁၂၇၁ ခု)အထိ ဝါတော် ၂၀ တိုင်တိုင် သီတင်းသုံးတော်မူခဲ့ပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၆ )

ရတနာတင်းတိန်ဟု ခေါ်ဝေါ်အပ်သော တောင်တွင်းကြီးမြို့၏ အရှေ့မြောက် ၁၆ မိုင်လောက်ဝေးကွာ၏၊ ရှေးယခင်အခါက ရဟန္တာအရှင်မြတ်တို့၏ သီတင်းသုံးနေထိုင်ရာဖြစ်သော ရဟန္တာကုန်းသို့ ဆိုက်ရောက်တော်မူသည်။

၁၉၃၁ ထိုရဟန္တာကုန်း တောရကျောင်း၌ အေဒီ ၁၉၃၁ ခု၊ (၁၂၉၃ ခုနှစ် )အထိ ၂၂ တိုင်တိုင် ဝါဆိုတော်မူပြီးလျှင် အရညဝါသီ တောရမှီ၍ ဝါဒီအလေ့ဖြင့် သီတင်းသုံးနေခဲ့ပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇ )



ရဟန္တာကုန်းတွင် သီတင်းသုံးတော်မူစဉ် အံ့ဖွယ်ကောင်းသော ပြဒါးရှင်နှင့် ပတ်သက်သော အကြောင်းအရာတို့ကိုလည်း ဆရာတော်ဘုရားကိုယ်တိုင် မိန့်ကြားသဖြင့် သိခွင့်ရခဲ့ပါသည်။

ဤသို့လျှင် တစ်တောင်ကျော်နင်း တစ်တောင်ဆင်းလျက် မြောင်ကျဉ်းထူပြော လမ်းမချောလည်း တစ်တောထွက်ဝင် တစ်ပင်ရိပ်နား ဆွမ်းခံစားလျက် ပွားများအားထုတ်တော်မူရာဖြစ်သော ကုန်းတော်၏အနီး၌ ကြက်ဥလုံးခန့် ပမာဏရှိသော ပြဒါးရှင်တစ်လုံးရှိသည်ဟုသိရသည်။

ထိုသို့မြေလျှိုးမိုးပျံ စွမ်းအင်ကြီးမား ရောင်လျှံကြွားသော ပြဒါးရှင်တစ်လုံးသည် ဝါခေါင်လ၊ တန်ဆောင်မုန်းလအခါတို့၌ စကြံတောင်မှ သံပုံစေတီသို့ အလီလီပျံဝဲ မြူးထူး၍ ညဥ့်သန်းခေါင်ယံအခါ ကူးသွားလေ့ရှိသည်။

ထိုပြဒါးရှင်လုံး ရှိသည်ကို ရဟန္တာကုန်း ဆရာတော်ဘုရားကြီးတစ်ပါးသာ သိရှိလေသည်။ အခြားသောပုဂ္ဂိုလ်များ သိမြင်သည်ဟူ၍ မကြားဖူးပေ။ ဤလို ဆရာတော်ဘုရားကြီး မိန့်ကြားခဲ့ဖူးလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇ )

ရဟန္တာကုန်းတွင် သီတင်းသုံးတော်မူစဉ် အံ့ဖွယ်ဖြစ်ရပ်များ ဖြစ်ပွားခဲ့ကြောင်း ကြည်ညိုဖွယ် သိခွင့်ရခဲ့ပါသည်။

## ဝက်ဝံ မြွေဟောက် ကျားဆင်ကြမ်း တို့ကို အောင်စွမ်းနိုင်ခြင်း

စကြံတောင်၌ သီတင်းသုံးတော်မူစဉ် ရဟန္တာကုန်း ဆရာတော်ဘုရားကြီး၏ ဖြူစင်မွေးထုံ သီလဂုဏ်ကြောင့် တောချိုးပျော်အောင်းမျောက်အပေါင်းတို့သည် သောင်းသောင်းဖြဖြ လာရောက်ကြ၍ ဦးချညွတ်နူးဖူးမြော်ခဲ့ဖူးလေသည်။

## မြွေကြီးကို အောင်မြင်ခြင်း

ကုန်းတော်၏မြောက်ဘက် ရိုးနက်ချောက်ကမ်းပါး၏အနီး ဝါးရုံပင်ကြီး၏ အထက်ဝယ် ကြီးကျယ်စွာ အသိုက်ပြုလျက် အဥတို့ကို အရေးယူပြီးလျှင် မွေးမြူ၍နေသော မြွေဟောက်ကြီး တစ်ကောင်သည် လမ်းခရီးအကြား ဆရာတော်ဘုရားနှင့် မျက်ဝါးကြိုက်ကြုံတွေ့ဆုံတော်မူကြရာ ခန္ဓသုတ်ပရိတ် နှုတ်တံဆိပ်နှင့် ဩဒိဿမယှဉ်း မေတ္တာတည်းဟူသော မန္တာန်ကို သွင်းသဖြင့် ပါးပျဉ်းကိုချုပ် မြေကြီးသို့ဝပ်ပြီးလျှင် ချောက်ကမ်းပါးစပ်သို့ ဆင်းသွားခဲ့ဖူးလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၉ )

## ဆင်ကြမ်းကြီးကို အောင်မြင်ခြင်း

၁၉၀၇ အေဒီ ၁၉၀၇ (၁၂၆၈ ခုနှစ်)တွင် ဆင်ဦးစီး ၄ - ၅ တို့ကို အကြောက်မဖက် နင်းလျက် ထိုးသတ်ဖူးသော မူတူးခေါ် ဆင်ကြမ်းနှင့် မြေပြင်သာ ဆွမ်းခံလမ်းတွင် စခန်းသင့် တွေ့ဆုံလေရာ ယုတ်မာသော ဆင်ကြမ်းပင်ဖြစ်လင့်ကစား ဆရာတော်ဘုရားကြီး၏ ပွားစီးသော မေတ္တာဟရားကြောင့် ဆင်ကြမ်းသည် ဒူးတုပ်၍ အရိုအသေပြုလျက်နေခဲ့ဖူးလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၀ )



## ဝက်ဝံကြီးကို အောင်မြင်ခြင်း

၁၉၀၈ အေဒီ ၁၉၀၈ ခု၊ (၁၂၇၀ ပြည့်နှစ်) သို့ ရောက်ပြန်လျှင် မျက်မာန်ထန်သည်း ဝက်ဝံကြီးနှင့် တောင့်တရာ တောလမ်းခရီးအတွင်း ဆွမ်းခံအဆင်းတွင် ပက်ပင်းပါ တွေ့ဆုံတော်မူပြန်ရာ ဆရာတော်ဘုရားကြီး၏ ဩဒိသနဲ့သာ မွေးကြိုင်သောမေတ္တာကြောင့် ဝက်ဝံသည် ဣန္ဒြေမပဲ့ ချည်ထိုင်၌ ဖွဲ့သကဲ့သို့ မရွဲ့မလှုပ် ကုပ်ကုပ်ကြီး ခေါင်းငိုက်ဆိုက်ချလျက် နေခဲ့ဖူးလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၉၀)

## ကျားကြီးကို အောင်မြင်ခြင်း

ရဟန္တာကုန်း ဆရာတော်ဘုရားကြီး စကြံတောင်၌ ဝါဆိုတော်မူစဉ်အခါ လေသာတောင်သို့ မီးပူဇော်ကြွသွား၍ အပြန်တွင် စကြံတောင်အငူ ဘုရားငါးဆူအနီး၌ ဟိန်းဟီးမဖက် မြင့်မားစွာ ထိုင်လျက်နေသော ကျားကြီးနှင့် တစ်ဖန်ရင်ဆိုင်တွေ့ဆုံပြန်သောအခါ ဆရာတော်ဘုရားကြီးကရပ်တန့်၍ မေတ္တာဓာတ် ဖြန့်တော်မူပြီးလျှင် ငါ့အသားကိုပင် စားလိုသလော၊ သို့တည်းမဟုတ် တရားကိုပင် နာလိုသဘောဟု ဝစီမမြွက် စိတ်မနော သက်သက်ဖြင့် ဆင်ခြင်အောက်မေ့တော်မူလေလျှင် ကျားကြီးသည် ဆရာတော်ထေရ်အရှင်၏ မေတ္တာဓမ္မစက် စူးရှသော လက်နက်ကြောင့် ရှေ့သို့ တိုးလာခြင်းမရှိဘဲ ဆရာတော်ဘုရားကြီးအား စိမ်းစိမ်းကြည့်လျက် ပကတိလာရင်းစွဲ ချောက်ထဲသို့ ခုန်လွှဲဆင်းသွားဖူးလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၀ )

## ကျားကို အကြိမ်ကြိမ် အောင်မြင်ခြင်း

၁၉၁၈ အေဒီ ၁၉၁၈ ခု၊ (၁၂၈၀ ပြည့်နှစ်) က ဆရာတော်ဘုရားကြီးသည် ကျောက်မြောင်း အဓိဋ္ဌာန်ဘုရား ရုပ်ပွားစေတီတော်မှ ဆွမ်းချ၍အပြန်တွင် အသံကိုကြားရုံမျှနှင့် ကြက်သီးမွေးညင်းထလောက်သော နွားမဒန်းမသဖွယ် ကြီးကျယ်သော ကျားကြီးနှင့် ခရီးရင်ဆိုင် ရိုးနက်ကြီးတောဂနိုင်တွင် ယှဉ်ပြိုင်၍တွေ့ကြရာ ဆရာတော်ဘုရားကြီး၏ ထန်သည်းသော စေတနာမေတ္တာဓာတ် သီတလာကြောင့် ကျားကြီးသည် ရန်ရှာခြင်း မပြု၊ မာန်ချ၍မဖီ ကြိုဆိုသည့် ပုံအနေဖြင့် ကြုံလှီစွာ တစ်ဖန်ထလျက် တောဘက်သို့ ဖဲသွားဖူးလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၁ )

၁၉၃၂ ရဟန္တာကုန်းဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၃၂ ခု ဖေဖော်ဝါရီ ၂၂ ရက်၊ တနင်္လာနေ့ (ကောဇာသက္ကရာဇ် ၁၂၉၃ ခု တပို့တွဲလပြည့်နေ့) ၁၀ နာရီအချိန်၌ ဝါတော် ၅၄ ဝါ ရရှိတော်မူပြီးသောအခါ ဘဝနတ်ထံပျံလွန်တော်မူသည်။

(ကျမ်းကိုး၊ အထက်ပါ အကြောင်းအရာတို့ကို တောင်တွင်းကြီးမြို့ သီရိမင်္ဂလာတိုက်သစ် မဟာနာယက ဘဒ္ဒန္တရာဇိန္ဒမဟာထေရ် ရေးသားစီရင်တော်မူသော ကျောက်မြောင်း ဆုတောင်းပြည့် စေတီတော်သမိုင်းနှင့် မဟာဗောဓိပင် လင်းလွန်းပင်တို့၏ အတ္တုပ္ပတ္တိ ရဟန္တာကုန်း ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း သုဝဏ္ဏဝတီ စာပုံနှိပ်တိုက်၊ ၁၃၂၉ ခု၊ သီတင်းကျွတ်လ၊ စာ၊၇၇-၉၁။ တို့မှ ရရှိပါသည်။)

ရဟန္တာဟု ကျော်ကြားသော

# ကျောင်းပန်းဆရာတော်ကြီး

**အေဒီ ၁၈၆၀ – ၁၉၂၆ (၁၂၂၂–၁၂၈၈)**



တော်ဝင်မြို့



၁၉၇၀ ခုနှစ် ပတ်ဝန်းကျင်က ရန်ကုန်တက္ကသိုလ်တွင်ရှိစဉ်က ကျွန်တော်သည် ပညာရေး တက္ကသိုလ်သို့ပြောင်းသွား၍ စာသင်လိုက်၊ တစ်ဖန် ရန်ကုန်တက္ကသိုလ်သို့ပြောင်း၍ စာသင်လိုက် တစ်ဖန် နိုင်ငံခြားဘာသာသင် တက္ကသိုလ်သို့ပြောင်း၍ စာသင်လိုက်နှင့် အလုပ်ရှုပ်သည့်အပြင် ရန်ကုန်တက္ကသိုလ် နယ်မြေအတွင်းရှိ အင်းဝဆောင်တွင်လည်း အဆောင်နည်းပြလုပ်လျက်ရှိ၏။

ထိုစဉ်တွင် မအားသည့်ကြားထဲက ကဗျာတွေစာတွေရေးသည့်ကြားထဲကပင် ဗဟုသုတလိုလား သော ကျွန်တော်သည် ကျွန်တော့်ထက် အသက်များစွာကြီးသော ဆရာကြီးများနှင့် တပူးတွဲတွဲနေခဲ့ရာ ပညာအလွန်ရပါသည်။ မကြားဖူးသည်ကို ကြားရပါသည်။ မသိဖူးသည်ကိုသိရပါ၏။ ထိုစဉ်က ရှေး ဟောင်းစာရေးဆရာကြီး ကျမ်းတတ်အကျော် လယ်တီထွက် ဒဂုန်ဦးစန်းငွေနှင့်လည်း အလွန်ခင်ခဲ့ရာ ဆရာကြီးနှင့် နေ့စဉ်တွေ့ဆုံရ၏။ ထိုစဉ်လယ်တီအကြောင်း သောင်းပြောင်းထွေလာကြားရ၏။ ပုပ္ပါး ဦးကျော်ရင်အကြောင်း၊ ကဝိဘာရတီကျမ်းအကြောင်း၊ လယ်တီပဏ္ဍိတဦးမောင်ကြီးအကြောင်း ခဏခဏ ကြားရ၏။

ထိုအခါ ဒဂုန်ဦးစန်းငွေနှင့် အလွန်ခင်သောဆရာကြီး လယ်တီဦးလှပိုင်ဟူ၍လည်းရှိ၏။ လယ်တီ ဦးလှတင် ဟူ၍လည်းရှိ၏။ လောကီလောကုတ် ပညာများနှင့် အလွန်ပြည့်စုံ၏။ အလွန်ရှိသေလေး စားထိုက်ပါသည်။ ထိုစဉ်ကတည်းက ဆရာကြီးလယ်တီဦးလှပိုင် ပြုစုရေးသားအပ်သော လယ်တီ ဂန္ထဝင် သမိုင်းကြီးကိုလည်း ထောင်းထောင်းကြေအောင်ဖတ်ရပါသေး၏။ ထိုထဲမှာ ကြောင်ပန်းဆရာတော် အကြောင်းကို ဖတ်ရှုရပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင် ၁၉၆၇ ခု ဩဂုတ်လက ပထမအကြိမ် ပုံနှိပ်ခဲ့၏)

**၎င်းနောက် ကြောင်ပန်းဆရာတော်အကြောင်း ၁၆ ချိုးစာအုပ်တစ်အုပ်ကိုလည်း တွေ့ရရာ စာအုပ်၏အမည်မှာ ရဟန္တာဟုကျော်ကြားသော ကြောင်ပန်းဆရာတော်ကြီးဟူ၍ အမည်တပ်ထားပါသည်။ ကျမ်းပြုသူမှာ ဦးတင်စိုးဖြစ်ပါသည်။**

(ကျမ်းကိုး ဦးတင်စိုး ဓမ္မာစရိယ၊ ရဟန္တာဟု ကျော်ကြားသော ကြောင်ပန်းဆရာတော်ကြီး၊ ပုံနှိပ်ခုနှစ် မပါရှိပါ။)

ယခု စာသားမှာ ဆရာကြီးလယ်တီ ဦးလှပိုင်ထံမှ ရရှိရပါ၏။ အလွန်မှတ်သားစရာကောင်းပါ၏။ အလွန်တိကျပါ၏။ အလွန်ကြည်ညိုဖွယ်ရာဖြစ်ပါ၏။ ယခင်က ဘုဘမသိခဲ့သော ကိစ္စများကိုလည်း ယခုမှ ကျကျနနသိရ၏။

ကြောင်ပန်းဆရာတော်ကြီးမှာ သက်တော် ၆၆ နှစ်အထိ နေခဲ့ရပါ၏။ ၁၉၂၆ ခုနှစ်က ပျံလွန်တော်မူခဲ့ပါ၏။ ထို့ကြောင့် ကျွန်ုပ်တို့သည် မမီခဲ့ပါချေ။ ထို့ကြောင့် သက်ကြီးစကားကိုသာ သက်ငယ် ကြားခဲ့ရပါ၏။ အောက်တွင်ဖတ်ကြည့်ပါ။

ကျေးရွှေရှင် လယ်တီဆရာတော်ဘုရားကြီး၏ တပည့်ကြီးများတွင် ကြောင်ပန်း ဆရာတော်သည်လည်း တစ်ပါးအပါအဝင်ဖြစ်၏။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင် ၁၉၆၇ ခု ဩဂုတ်လက ပထမအကြိမ် ပုံနှိပ်ခဲ့၏။ မန္တလေးမှ ထုတ်သည်ထင်မိ၏။စာ ၂၈၁)

ကျေးရွှေရှင်ကြောင်ပန်းဆရာတော်ဘုရားသည်ကား သသနာ့သမိုင်းဝင် လယ်တီ နိကာယဂိုဏ်းမှ ဖြစ်ထွန်းတော်မူခဲ့သော ဝိပဿနာသာသနာပြု ပုဂ္ဂိုလ်ကျော်ကြီး ပေတည်း။



(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင် ၁၉၆၇ ခု ဩဂုတ်လက ပထမအကြိမ် ပုံနှိပ်ခဲ့၏။ မန္တလေးမှ ထုတ်သည်ထင်မိ၏။ စာ ၂၈၁)

အင်းခန်းတော့လယ်ပေါ်၊ လယ်ပေါ်တော့ငှက်ကျ၊ ငှက်ကျတော့ကြောင်ခုတ် ဟူ၍လည်းကောင်း၊ အင်းခန်းလို့ လယ်ပေါ်၊ ငှက်တော်ကြောင်ခုတ် ဟူ၍လည်းကောင်း သာသနာ့သမိုင်းဝင် တဘောင်အရ ဝိပဿနာ ပုဂ္ဂိုလ်ကျော်များမှာ အင်းခန်းဆရာတော်၊ လယ်တီဆရာတော်၊ ငှက်တွင်းဆရာတော်၊ ကြောင်ပန်းဆရာတော်တို့ဖြစ်ကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၂၈၁)

## ဇာတိ

ကြောင်ပန်းဆရာတော်၏ ချက်မြှုပ်ရာ ဇာတိဖြစ်သော ကျည်းပင်ချောင်ကျေးရွာသည် မုံရွာအလုံ ကားလမ်းအနီး သာယာကြည်နူးဖွယ်တည်ရှိလေသည်။

## ဖွားသက္ကရာဇ်

၁၈၆၀ မုံရွာနှင့်ဆိုလျှင် ၁၉ မိုင်ခန့် ကွာဝေးခဲ့ရာ ထိုရွာတွင် တောင်သူမျိုးရိုး ခမည်းတော် ဦးမြ၊ မယ်တော် ဒေါ်လှိုင်တို့မှ အေဒီ ၁၈၆၀ ခု၊ (သက္ကရာဇ် ၁၂၂၂ ခု၊ သီတင်းကျွတ်လ ဆန်း ၃ ရက်) တနင်္ဂနွေနေ့နံနက် ၁၀ နာရီအချိန်တွင် ကြောင်ပန်းလောင်းလျာ သတို့သားကိုဖွားမြင်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၂၈၅)

၁၈၆၆ ငယ်မည် မောင်သံတူ ဖြစ်၏။ အေဒီ ၁၈၆၆ ခု၊ (သက္ကရာဇ် ၁၂၂၈ ခု) အသက်အရွယ် ၆ နှစ်ခန့်ရှိလျှင် မိဘနှစ်ပါးတို့က ကျည်းပင်ချောင် ရွာဦးကျောင်း ဆရာတော် ဦးမုနိန္ဒ အထံ အပ်နှံလျက် အခြေခံ ကျမ်းစာများကို သင်ကြားစေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၂၈၅)

၁၈၇၄ အေဒီ ၁၈၇၄ ခု၊ ၁၂၃၆ ခုနှစ် ၁၄ နှစ်အရွယ် သာမဏေ အဖြစ် မိဘ ၂ ပါးကပင် ချီးမြှောက်ရာ ဘွဲ့တော်မှာ ရှင်ကုဏ္ဍကဖြစ်လေ၏။

၁၈၇၈ သာမဏေဘဝတွင် ကိုးကြောင်း ဂဏ္ဍာန်းသချ်ာနှင့် ဗေဒင် သဒ္ဒါ သင်္ဂြိုဟ် စသော ပါဠိကျမ်းတို့ကို ၃ နှစ်တာမျှ သင်ယူပြီး အသက် ၁၇ နှစ်အရွယ် အေဒီ ၁၈၇၈ (၁၂၃၉ ခုနှစ်)တွင် ကိုရင်လူထွက်လာသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၂၈၅)

၁၈၈၀ ကိုရင်ဘဝ မိမိဆရာတော် ပျံလွန်တော်မူ၍ လူထွက်ခဲ့ရာ အေဒီ ၁၈၈၀ ခု၊ (၁၂၄၁ခု) ခမည်းတော် ကွယ်လွန်ပြန်သဖြင့် သေခြင်းတရား၏ ထိတ်လန့်မှု သံဝေဂကို ရရှိလေ၏။

အင်း ငါ့ဆရာကိုလည်း သေမင်းကခေါ်ယူသွားခဲ့ပြီ၊ ယခု ငါ့ခမည်းတော်ကိုလည်း သေမင်းက နှိပ်စက်ခေါ်ယူပြန်ပြီ၊ အသင်သေမင်း အသင့်နိုင်ငံမှ ဒီဘဝနဲ့ လွတ်မြောက်အောင် ငါကြိုးစားအံ့ဟူ၍ နှလုံးသွင်းပြီးလျှင် တစ်ကိုယ်တည်း ကြုံးဝါးလျက်နေလေ၏။

မိခင်ကြီးအား ကိုရင်ပြန်ဝတ်ရန် အကြိမ်ကြိမ်ခွင့်တောင်းရှာလေ၏။



မိခင်ကလည်း ခွင့်မပေးရက်ရှိလေရာ နောက်ဆုံးတွင် ကြောင်ပန်းလောင်းလျာ မောင်သံတူသည် လူဝတ်နှင့်ပင် လယ်တီဆရာတော်ဖြစ်လာမည့် စိုင်ပြင်ဦးဉာဏ ခေတ္တနေရာ စစ်ကိုင်းတောင် ညောင်ပင်သာချောင်သို့ ထွက်ခွာသွားလေ၏။

## လယ်တီဆရာတော်လောင်းလျာက ကြောင်ပန်းလောင်းလျာကို ကိုရင်ဝတ်ပေးခြင်း

ထိုအချိန်က လယ်တီဆရာတော်လောင်းလျာ ဦးဉာဏသည် မန္တလေးမြို့ စံကျောင်းတိုက်တွင် ပညာသင်ကြားနေခိုက် ဝါပဖြစ်လျှင် အဆိုပါချောင်သို့ ခေတ္တခဏ ကြွရောက်နေမြဲဖြစ်၏။ ကြောင်ပန်း လောင်းလျာရောက်လာသည့်နေ့မှာပင် ဦးဉာဏက ကိုရင်ပြန်ဝတ်ပေးလေ၏။

(ကျမ်းကိုး။ ယင်းကျမ်း စာ၊ ၂၈၅)

နောက်မကြာမီ မယ်တော် ဒေါ်လှိုင်နှင့် သားငယ် မောင်သာပိုက်တို့သည် အဆိုပါချောင်သို့ လိုက်လာကြရာ မောင်သံတူအား ကိုရင်ဝတ်နှင့်တွေ့မြင်ကြရလေ၏။ မယ်တော်ကြီးမှာ ကိုရင်ဝတ်နှင့် မြင်ရသော မိမိသားကြီးကို ပွေ့ပိုက်၍ ငိုကြွေးရှာသောဟူ၏။

## လယ်တီဆရာတော်လောင်းလျာက တရားပြရခြင်း

လယ်တီလောင်းလျာ ဦးဉာဏက တရားပြသ ဆုံးမသဖြင့် လူထွက်ရန်အတွက် လျှောက်ထားခြင်းမှ လက်လျှော့ရှာရလေ၏။

(ကျမ်းကိုး။ ယင်းကျမ်း စာ၊ ၂၈၅)

## လယ်တီဆရာတော်လောင်းလျာထံ တပည့်ခံခြင်း

ကိုရင်ဣန္ဒကကိုလည်း ဦးဉာဏက မန္တလေးစံကျောင်းတိုက်သို့ ခေါ်ယူပြီးလျှင် လယ်တီဆရာတော်ကြီးဖြစ်မည့် ဦးဉာဏကိုယ်တိုင် နေ့ဝါ ညဝါ စာပေကျမ်းဂန်များကို ပို့ချသင်ကြားပေးလေ၏။

၁၈၈၀ အေဒီ ၁၈၈၀ (သက္ကရာဇ် ၁၂၄၂ ခုနှစ်)တွင် ကိုရင်ဣန္ဒကအား စစ်ကိုင်းတောင် ညောင်ပင်သာ ချောင်၌ သစ်ဆိမ့် ဆရာတော်ကြီးအား ဥပဇ္ဈာယ်ပြုလျက် စံကျောင်းမှ ဦးဉာဏစသော ဆရာများ၊ စစ်ကိုင်းတောင်မှ ဆရာများဖြင့် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်အောင်ချီးမြှောက်တော်မူကြလေ၏။

(ကျမ်းကိုး။ ယင်းကျမ်း စာ၊ ၂၈၆)

လယ်တီလောင်းလျာ ဆရာတော်ဦးဉာဏက ပစ္စည်းလေးပါး ခံယူချီးမြှောက်တော်မူကြောင်းသိရှိရ၏။

(ကျမ်းကိုး။ ယင်းကျမ်း စာ၊ ၂၈၆)

၁၈၈၂ နောက်တစ်ခါ ဝက်ရဲရွာတွင် ရဟန်းခံသေးသည်။ ကျေးဇူးရှင် လယ်တီဆရာတော်သည် အေဒီ ၁၈၈၂ခု (၁၂၄၄ ခုနှစ်)တွင် စံကျောင်းတိုက်မှ မုံရွာသို့ ကြွရောက်လာရာ မန္တလေးမှာပင် ဆက်လက်၍ စာပေသင်ကြားခွင့်ပြုရန် လျှောက်ထားခွင့်ပန် နေရစ်



ခဲ့ပြီးလျှင် ဇီးဘန်နီဆရာတော်အထံမှာလည်း ချဉ်းကပ်ခဲ့ဖူးလေသည်။

၁၈၈၅ ရဟန်းတော် ဦးဣန္ဒကသည် အရှင်နှစ်ပါး ပါတော်မူသောအခါ အေဒီ ၁၈၈၅ (၁၂၄၇ ခု)တွင် ရဟန်းသိက္ခာ ၅ ဝါမျှရှိသေး၏။

၁၈၉၂ အေဒီ ၁၈၉၂ ခု (သက္ကရာဇ် ၁၂၅၃ ခုနှစ်) ရောက်သောအခါ လယ်တီဆရာတော်သည် တပည့်ကြီးဦးဣန္ဒကကို မန္တလေးမှ မုံရွာလယ်တီတိုက်သို့ ပြန်လည်ခေါ်ယူပြီးလျှင် လယ်တီတိုက်တွင် ရဟန်းငယ်များအား စာပေပို့ချရန် အမိန့်ရှိတော်မူရာ ဦးဣန္ဒကသည် တပည့်သည် ငယ်ဆရာနှင့် ခမည်းတော်တို့ကို သေမင်းခေါ်ယူစဉ် သေမင်းဝင်မှ ကျွတ်လွတ်ထွက်မြောက်စေအံ့ဟု ကြုံးဝါးလာချက်ရှိပါသည်။ စာချဝတ်မှ ခွင့်လွှတ်သနားတော်မူ၍ သေမင်းမမြင်သော တရားရှာဖွေရန် ခွင့်ပြုပါဘုရားဟု လျှောက်ထားလေ၏။ ထိုအခါ ကျေးဇူးရှင်ဆရာတော်ကြီးသည် လွန်စွာအားရနှစ်သိမ့်တော်မူ၍ ကြောင်ပန်းလောင်းလျှာ ဦးဣန္ဒကအား တောင်ပို့ ဥပမာဖြင့် စိတ်ကို ကိုယ်တွေ့ (သံဒိဋ္ဌိက)အဖြစ် ကျယ်ပျံ့စွာ ဟောကြားဆုံးမလျက် သာဓုအကြိမ်ကြိမ်ခေါ်လေ၏။ တရားအားထုတ်သောအခါ အလိုရှိလျှင် အကြောင်းကြား ပင့်ခေါ်ရန် ကိုလည်း မိန့်ကြားလိုက်လေ၏။

၁၈၉၁ ဦးဣန္ဒကအရှင်သည် မုံရွာမှ ခြေလျင်ခရီးဖြင့် ကျေးဇူးရှင်မယ်တော်ကြီးအထံ ခေတ္တဝင်ရောက်ပြီးနောက် အေဒီ ၁၈၉၁ ခု၊ မေလ ၂၁ ရက်၊ ကြာသပတေးနေ့ (၁၂၅၃ ခုနှစ် နယုန်လပြည့်နေ့)တွင် ဝက်ရဲ(ဝရဲ)တောကြီးသို့ တရားအားထုတ်ရန် ကြွရောက်တော်မူလေ၏။

၁၈၉၄ နှစ်လများစွာ သီတင်းသုံးနေစဉ် ဆရာတော်၏ ရပ်ရွာမှ ဆွေမျိုးများ လာရောက်ကြပြီးလျှင် လှူဖွယ်ပစ္စည်းများကိုလည်းလှူလေ၏။ မယ်တော်ကြီး မပါလာသဖြင့် မေးသောအခါ အေဒီ ၁၈၉၄ ခု၊ ဇွန်လ (၁၂၅၆ ခု နယုန်လ)ကပင် ကွယ်လွန်ကြောင်းလျှောက်ထားကြ၏။ မိမိဆွေမျိုးများကိုလည်း တရားပြသ၍ဆုံးမတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၂၈၅)

## လယ်တီဆရာတော် ဝက်ရဲတောသို့ ကြွတော်မူခြင်း

ထိုအချိန်မှစ၍ ပြင်းထန်စွာ တရားအားထုတ်ရာ ၇ ရက်မှ တစ်ကြိမ် ဆွမ်းခံခြင်းဖြင့် ရောင့်ရဲမှုတလျက် ကျင့်ကြံတော်မူလေ၏။

တရားကိုပြင်းပြစွာ အားထုတ်နေရာ ခန္ဓာကိုယ်မကျန်းမမာရှိလေ၏။ မိမိ၏ ဆရာရင်းဖြစ်သော လယ်တီဆရာတော်ထံသို့ အရှင်ဘုရားဟောကြားတော်မူသော နာမ်တရားက ဆန်းကြယ်လွန်းလို့ မပိုင်နိုင်အောင်ရှိပါကြောင်း လျှောက်လွှာကို ရေးသားဆက်သွင်းလေ၏။

လယ်တီဆရာတော်ကြီးသည် ကြောင်ပန်းတပည့်ထံမှ လျှောက်ထားသော စာလွှာကို ရရှိသောအခါ ဝရဲတောက တပည့်ကြီး ခေါ်တာသွားမှပဲဟု အမိန့်ရှိပြီးလျှင် စာပို့လာသူနှင့်အတူ ပရိက္ခရာမျှကိုသာယူ၍ ချက်ခြင်းလိုက်ပါကြွသွားတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၂၈၉)



## လယ်တီဆရာတော်ကိုယ်တိုင် ဆွမ်းခံကျွေးခြင်း

၁၉၀၀ အချိန်မှာ အေဒီ ၁၉၀၀ ခု၊ မေလ (၁၂၆၂ ခု) ပုပြင်းလှသော ကဆုန်လဖြစ်သည်။ ထိုအချိန် ဦးဣန္ဒကသည် အနည်းငယ် နေမကောင်းဖြစ်ရာ ကျေးဇူးရှင် ဆရာတော်က ဆွမ်းခံကျွေးမွေးခြင်းဖြင့် ပါရမီကို ကူညီဖြည့်၍ နေလေသည်။ ဆရာတော်ကြီးလည်း ဝရဲတောမှာပင် ဝါဆိုတော်မူ၏။

ကြောင်ပန်း ဦးဣန္ဒကသည် ထိုဝါတွင်းသုံးလပတ်လုံး မိမိမျက်နှာကို သင်းပိုင်ဖြင့် ဖုံးအုပ်စည်းပြီးလျှင် မျက်စိမဖွင့်တော့ဘဲ တရားအားထုတ်ရာ နာမ်တရားလိမ်နေခြင်းကို ပိုင်ပိုင်ကြီးသိမြင်သွားသောဟူ၏။ ကျေးဇူးရှင် ဆရာတော်ကြီးအားလည်း မိမိသိမြင်နေသောတရားကို ပြန်လည်လျှောက်ထားရာ များစွာအားရ နှစ်သိမ့်တော်မူ၍ သာဓုအကြိမ်ကြိမ်ခေါ်လေ၏။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၊ ၂၈၉)

## ဝက်ရဲတော၌ သီတင်းသုံးခြင်း

လယ်တီနှင့်ကြောင်ပန်းဆရာတော်တို့ သီတင်းသုံးရာ ဝက်ရဲတောကြီးကား ဆင်ရိုင်းကြီးများလည်းရှိ၏။ သစ်ကျားတို့လည်း အလွန်များလှ၏။ ဝက်ရဲ (ဝရဲ) ရွာအနီး ကြောင်ပန်းတောရကြီးများလည်းရှိ၏။ ထို့နောက် ဝါကျွတ်ပြီးဖြစ်၍ ဆရာနှင့်တပည့် ၂ ပါးတို့သည် ဝရဲတောမှ ဘုတလင်သို့ ကြွရောက်တော်မူကြပြီးလျှင် ဦးဣန္ဒကအားလည်း ဆေးကုပေးရလေ၏။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၊ ၂၈၉)

## လယ်တီဆရာတော် ချီးကျူးခြင်း

ဘုတလင်မြို့တွင် ခေတ္တ သီတင်းသုံးတော်မူကြစဉ် လယ်တီဆရာတော်ကြီးသည် ကြောင်ပန်းဆရာတော် ဦးဣန္ဒက တရားအားထုတ်ပုံ စိတ်တစ်လုံးပိုင်ပုံစသည်များကို ရောက်လာသမျှသော တပည့်ကြီးငယ် ပရိသတ်တို့အား ပြောဟောချီးကျူးတော်မူလေ၏။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ၊ ၂၉၀)

## ကြောင်ပန်းတောရဖြစ်ပေါ်လာခြင်း

၁၉၀၄ ထို့နောက် အေဒီ ၁၉၀၄ ခု၊ (၁၂၆၅ ခုနှစ်) တွင် ကူတောရွာမွှန်၏ အရှေ့ဘက် ကြောင်ပန်းတောကြီးသို့ ရွှေ့ပြောင်းသီတင်းသုံးတော်မူပြန်၏။ ကြောင်ပန်းချုံကြီး အတွင်း တရားအားထုတ်ရင်းနေလာခဲ့ရာ အနီးပတ်ဝန်းကျင်ကျေးရွာများမှ ဒကာ ဒကာမတို့ လိုက်ပါလာကြပြီးလျှင် တရားနာသူ အားထုတ်သူများတိုးတက်လာလေ၏။

ထို့နောက် ကြောင်ပန်းတောရဖြစ်လာပေ၏။ ကြောင်ပန်းချုံကြီးကို အမှီပြု၍လည်း ကြောင်ပန်းတောရဖြစ်လာရာ ဌာန၏အမည်ကို အစွဲပြုလျက် ကြောင်ပန်းဆရာတော်ဖြစ်လာ၏။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၊ ၂၉၁)



၁၉၀၆ အေဒီ ၁၉၀၆ ခု၊ (၁၂၆၈ ခုနှစ်)တွင် ဝိဝဋ္ဋ ဒီပနီကျမ်းကို ရေးသားသည်။
အေဒီ ၁၉၁၀ ခု၊ (၁၂၇၂ ခုနှစ်)တွင် ဝိပဿနာ ဒီပနီကျမ်းကို ရေးသားသည်။

## မောင်းထောင်ဦးကျော်လှ၏ သံချိုတစ်ပုဒ်

ထိုအချိန်က နေမြင် လမြင် နက္ခတ်ဆရာကြီးဖြစ်သော မောင်းထောင် ဦးကျော်လှသည် ကြောင်ပန်းဆရာတော်နှင့် စပ်လျဉ်း၍ သံချို ကဗျာတစ်ပုဒ်ကိုလည်း ဖွဲ့ဆို မှတ်တမ်းတင်ခဲ့ပေသေး၏။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ၊ ၂၉၁)

ဤသို့ဖြင့် ကြောင်ပန်းတောရ ဆရာတော်ကြီးသည် ဘုတလင် ကြောင်ပန်းတောရနှင့်တကွ ကျေးလက်မြို့နယ် အခြားတောရများသို့ လှည့်လည်ကြွရောက်ပြီးလျှင် ကြောင်ပန်းဝိပဿနာ သာသနာ အမှုကို ဆက်တိုက်ပြုစုလျက် ရှိတော်မူလေ၏။

> ကျေးဇူးရှင် လယ်တီဆရာတော်ကြီးကလည်း မိမိတပည့်ကြီး ခက်ခဲနက်နဲလှသော ဝိပဿနာတရားများကို လှည့်လည် ဟောကြားတော်မူခြင်းကို များစွာအားရ နှစ်သိမ့်တော်မူလှ၏။ ဝိပဿနာတရား အမြင်ချင်း ကွာခြားမှုကြောင့် အချို့တပည့်များက ဆရာတော်ကြီးအား လျှောက်ထားကြသောအခါ 'ဟေ့ မောင်ချော(မောင်ချောကား အလုံမြို့သူကြီးတည်း) ကြောင်ပန်း၏ဉာဏ် လူသာမန် မိရန် ခဲယဉ်းပါသကွာ'ဟူ၍ မိန့်တော်မူဖူး၏။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ၊ ၂၉၄)

ထိုနေ့မှာပင် လယ်တီတိုက်သို့ကြွရောက်၍ ဒုတိယလယ်တီတိုက်အုပ်ဆရာတော် စသည်တို့နှင့် တိုင်ပင်ဆွေးနွေးခဲ့လေ၏။

> ဆရာတော်ကြီး၏ ရုပ်အလောင်းတော်ကိုမရသဖြင့် ဆရာတော်ကြီး ရေးသားစီရင်တော်မူခဲ့သော ဒီပနီကျမ်းတို့ကို ကျောက်ထက်အက္ခရာတင်၍ ကျောက်စာတိုင်တည်ဆောက်ရန် ရှေ့တန်းမှဦးဆောင်လျက် ဆရာတော်ကြီး၏ ဂုဏ်တော်ကျေးဇူးတော်များကို ကျေးဇူးဆပ်သည့်အနေဖြင့် ကျောက်စာနယ်လှည့် တာဝန်ခံ ဓမ္မကထိကဖွဲ့စည်းရာတွင် ထိပ်ဆုံးကပင် ပါဝင်ဆောင်ရွက်တော်မူခဲ့လေ၏။
>
> (ကျမ်းကိုး။ ဦးတင်စိုး ဓမ္မာစရိယ၊ ရဟန္တာဟု ကျော်ကြားသော ကြောင်ပန်းဆရာတော်ကြီး စာ ၊ ၅၅)

## လယ်တီဆရာတော် ပျံလွန်တော်မူကြောင်း ကြေးနန်းစာ

၁၉၂၃ အေဒီ ၁၉၂၃ ခု၊ (၁၂၈၅ ခုနှစ်)တွင် ပျဉ်းမနားမြို့မှာ လယ်တီဆရာတော်ဘုရားကြီး ပျံလွန်တော်မူကြောင်းကို မုံရွာမြို့လယ်တီတိုက်မှတစ်ဆင့် ဘုတလင် ကြောင်ပန်းတောရတိုက်သို့ ကြေးနန်းဖြင့် အကြောင်းကြားလိုက်ရာ 'ဟာ ပြီးရောဗျာ တစ်ခါဖြင့် ခက်ကြပြီ ဝိနိစ္ဆယမဏ္ဍိုင်ကြီးပျိုလဲသွားပြီ'ဟု အလွန်ညည်းညူတော်မူရှာသတဲ့။ ထိုနေ့မှာပင် မုံရွာမြို့လယ်တီတိုက်သို့ ချက်ချင်းလိုက်သွားပြီး ဒုတိယလယ်တီတိုက်အုပ်ဆရာတော်စသော အနီးနေပုဂ္ဂိုလ်များနှင့်တွေ့ဆုံ၍ လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော်ကို မုံရွာသို့ပင့်ဆောင်ရေးအတွက် ညှိနှိုင်းဆွေးနွေးကြလေသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၊ ၅၄-၅၅)



## ကြောင်ပန်းဆရာတော် ဦးဆောင်ပြီး သွားပင့်ရန်

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် ပျဉ်းမနားမြို့ ဦးလန်းတိုက်၌ ပျံလွန်တော်မူရာ ပျဉ်းမနားမြို့ပေါ် နယ်ပယ်ရှိ တပည့်ဒကာ ရဟန်းသံဃာတော်များနှင့် မြန်မာနိုင်ငံအောက်ပိုင်း၌ ရှိကြသော တပည့်တပန်း ရဟန်းသံဃာတော် အားလုံးတို့က ဆရာတော်ဘုရားကြီး၏ အလောင်းတော်ကို မြန်မာပြည်အလယ်ပိုင်း ပျဉ်းမနားမြို့မှာပင် သင်္ဂြိုဟ်ခြင်း အန္တိမစျာပနအမှုကိုပြုရန် တညီတညွတ်တည်း ဆုံးဖြတ်၍ မုံရွာမှလာပင့်လျှင်လည်း ခွင့်မပြုရန် သက်ဆိုင်ရာ အုပ်ချုပ်ရေးပိုင်းနှင့် ညှိနှိုင်းလျက် အပြီးအပိုင် အစီအစဉ်ရေးဆွဲထားကြသည်။

ထိုသတင်းကို မုံရွာမြို့ရှိ တပည့်ကြီးများက အထောက်တော်များမှတစ်ဆင့် အတိအကျ ခိုင်လုံစွာသိရှိရသဖြင့် အလောင်းတော်ကို သာမန်ပုဂ္ဂိုလ်များ သွားပြီးပင့်လို့ ရနိုင်မည့် အခြေအနေ မရှိသောကြောင့် လူပရိသတ် ရဟန်းပရိသတ်များသော အစည်းအဝေးကြီးကို ထပ်မံပြုလုပ်ပြီး ထိုအစည်းအဝေးကြီးမှ မုံရွာမြို့မှာ သင်္ဂြိုဟ်သင့်ကြောင်းကို အကြောင်းယုတ္တိ ခိုင်လုံစွာဖြင့် ပြောဆိုနိုင်သော ပုဂ္ဂိုလ်ဖြစ်ခြင်း။ အားလုံးသော လူ ရှင် အပေါင်းတို့ ယုံကြည်လေးစားသော ပုဂ္ဂိုလ်ဖြစ်ခြင်း ဟူသော အရည်အချင်းကို သတ်မှတ်ပြီး ရွေးချယ်သောအခါ ကြောင်ပန်းဆရာတော်ဘုရားကြီးနှင့်သာ သင့်လျော်ကြောင်း အားလုံးက တညီတညွတ်တည်း ဆုံးဖြတ်လိုက်ကြလေသည်။

ထို့ကြောင့် ကြောင်ပန်းဆရာတော် ဦးဆောင်သော အလောင်းတော်ပင့်ဆောင်ရေး အဖွဲ့ကို ပျဉ်းမနားမြို့သို့ လွှတ်လိုက်ကြလေသည်။ ကြောင်ပန်းဆရာတော်ဦးဆောင်သောအဖွဲ့သည် ပျဉ်းမနားမြို့တွင် အလောင်းတော်ပင့်ဆောင်ရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများနှင့် အကြီးအကျယ်ဆွေးနွေးကြစဉ် လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော်မှာ ရုတ်တရက်ပျောက်ဆုံးသွားလေသည်။ ထို့ကြောင့် ပင့်ဆောင်ရေးအစီအစဉ် ပျက်သွားလေတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၅၅၊၅၆)

## လယ်တီဆရာတော်ဘုရားကြီးအတွက် မှန်စီရွှေချခေါင်းတော်

မုံရွာမြို့ရှိ တပည့် ဒကာ ဒကာမအပေါင်းတို့က လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော် ပင့်လာသောအခါ အဆင်သင့် ထည့်သွင်းရန် မှန်စီရွှေချ ခေါင်းတော်ကို အပြီးလုပ်ထားကြသည်။ အလောင်းတော် ပါမလာသောကြောင့် ထိုခေါင်းတော်မှာ အချည်းနှီးဖြစ်ရလေသည်။

၁၉၂၇ အလွန်ထူးဆန်းသောအချက်မှာ ထိုသို့ လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို ပျဉ်းမနားသို့သွားရောက်၍ ပင့်ဆောင်ရာတွင် ဦးဆောင်ဦးရွက်ပြုခဲ့သော ကြောင်ပန်းဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၂၇ ခု၊ ဇန်နဝါရီလ ၊ ၆ ရက်၊ ကြာသပတေးနေ့ (၁၂၈၈ ခုနှစ်၊ ပြာသိုလဆန်း ၄ ရက်နေ့)တွင် ပျံလွန်တော်မူခဲ့ပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၅၆၊၅၇)

၁၉၂၇ ကြောင်ပန်းဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၂၇ ခု၊ ဇန်နဝါရီလ ၅ ရက်၊ ဗုဒ္ဓဟူးနေ့ (သက္ကရာဇ် ၁၂၈၈ ခု၊ ပြာသိုလဆန်း ၃ ရက်နေ့)တွင် ပျံလွန်တော်မူလေ၏ဟု ဦးလှပိုင်က မှတ်တမ်းတင်ထားပါသည်။



(ကျမ်းကိုး၊ လယ်တီဦးလှပိုင်၊ လယ်တီဂန္ထဝင် ၁၉၆၇ ခု ဩဂုတ်လက ပထမအကြိမ်ပုံနှိပ်ခဲ့၏။ မန္တလေး၊စာ၊ ၂၉၆)

## လယ်တီဆရာတော်ကြီးအတွက် ရွှေခေါင်းကြီးကို ကြောင်ပန်းဆရာတော်ဘုရားကြီးအတွက် အသုံးပြုတော်မူခြင်း အံ့ဖွယ်

ထိုအခါ လယ်တီဆရာတော်ဘုရားကြီး၏ အနုဂ္ဂနှစ်မျိုးဖြင့် ချီးမြှောက်ခဲ့သော လက်သပ်မွေးတပည့်ကြီးဖြစ်ခြင်းကြောင့်တစ်ကြောင်း၊ လယ်တီဆရာတော်ဘုရားကြီး၏ ကြိုးပမ်းမှု ဝိပဿနာသာသနာကို ရှေ့တန်းမှ ရှပ်ရှပ်ချွံချွံ ဆောင်ရွက်တော်မူခဲ့ခြင်းကြောင့်တစ်ကြောင်း၊ လယ်တီဆရာတော်ဘုရားကြီး၏ မှန်စီရွှေချခေါင်းတော်ကို ကြောင်ပန်းဆရာတော်၏ ရုပ်အလောင်းတော်ထည့်ရန် လယ်တီတိုက်တွင်းရှိ သံဃာတော်များက ဆုံးဖြတ်တော်မူကြသည်ဟူသော အချက်ဖြစ်ပါသည်။ ထို့ကြောင့်ပင် လယ်တီဆရာတော်ဘုရားအတွက် စီမံထားသော မှန်စီရွှေချခေါင်းတော်ကြီးကို ကြောင်ပန်းဆရာတော်ကြီးအတွက် အသုံးပြုလိုက်ရလေသည်။ အံ့ဖွယ် တိုက်ဆိုင်မှုဖြစ်၏။

( ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၅၆၊၅၇ )

## မှန်စီရွှေချ ခေါင်းတော်ကို ဘုတလင်သို့ ယူဆောင်ကြခြင်း

ထိုခေါင်းတော်ကို မီးရထားဖြင့် ဘုတလင်မြို့ ကြောင်ပန်းတောရကျောင်းသို့ သယ်ယူလိုကြောင်း မီးရထားရုံပိုင်ကြီးထံ သွားရောက်ဆွေးနွေးကြရာ ခေါင်းတော်ယူရေးအဖွဲ့၏ လိုလားချက်အားလုံးကို ရုံပိုင်ကြီးက အကူအညီပေးရေးအဖွဲ့ပေးလေသည်။ ထို့ကြောင့် ခေါင်းတော်သယ်ယူရေးမှာ အခက်အခဲမရှိဘဲ စည်ကားသိုက်မြိုက်စွာပင် ယူဆောင်နိုင်ခဲ့လေသည်။

အထူးမှာ ကြောင်ပန်းဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော်ကို ထိုခေါင်းတော်အတွင်းသို့ မထည့်သွင်းမီ လူဝတ်ကြောင်များအားလုံးကို ကိုင်ခွင့်မပြုရန် ဒုတိယမြောက် လယ်တီဆရာတော်ဘုရား ဦးဉာဏော၏ အမိန့်ရှိချက်အရ မုံရွာမှ သံဃာတော်များက ဘုတလင်မြို့ ကြောင်ပန်းတောရအထိ လိုက်ပို့ကြရသည်။

ထို့ပြင် ထိုမှန်စီရွှေချခေါင်းတော် သယ်ဆောင်လာသော မီးရထားသည် ကြောင်ပန်းတောရ အနီးမှာ ဘူတာရုံ မဟုတ်ဘဲနှင့် ရပ်ပေးလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၊ ၅၇)

## တဘောင်အရ ပေါ်ပေါက်လာခြင်း

ကြောင်ပန်းဝိပဿနာဟူ၍ မော်ကွန်းတင်နိုင်အောင် စွမ်းစွမ်းတမံ အားထုတ်တော်မူသွားသော ကျေးဇူးရှင် ကြောင်ပန်း ဆရာတော်ဘုရားကြီးနှင့် စပ်လျဉ်းသော အတိတ်တဘောင်များလည်း ပေါ်ပေါက်လာခဲ့သည်။ ထိုတဘောင်ကား အင်းခမ်းတော့ လယ်ပေါ်၊ လယ်ပေါ်တော့ ငှက်ကျ၊ ငှက်ကျတော့ ကြောင်ခုတ်ဟူ၍လည်းကောင်း၊ အင်းခမ်းလို့ လယ်ပေါ်၊ ငှက်တော် ကြောင်ခုတ်ဟူ၍လည်းကောင်း တဘောင်များပေါ်လာခဲ့ပေသည်။

ထိုတဘောင်များအရ -



(အင်း) ဆိုသည်မှာ အင်းခန်းဆရာတော် (မဟာဝိသုဒ္ဓါရာမ ရွှေကျင်ဆရာတော်ဘုရားကြီး)ဖြစ်ကြောင်းသိရပါသည်။

(လယ်) ဟူသော စကားမှာ လယ်တီဆရာတော် ဖြစ်ကြောင်း သိရပါသည်။

(ငှက်) ဟူသော စကားမှာ ငှက်တွင်းဆရာတော်ဖြစ်ကြောင်း သိရပါသည်။

(ကြောင်) ဟူသော စကားမှာ ကြောင်ပန်းဆရာတော်ဖြစ်ကြောင်း သိရပါသည်။

ဤသည်ကို ရည်၍ အင်းခန်းတော့လယ်ပေါ် ငှက်တော်ကြောင်ခုတ် ဆိုကြောင်း ပညာရှင်များက ပြောကြားပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၊ ၅၈၊ ၅၉)

ကြောင်ပန်းဆရာတော် စီရင်သောကျမ်းများမှာ - ဝိဝဋ္ဋဒီပနီ (အေဒီ ၁၉၀၇ / ၁၂၆၈ နှင့် အေဒီ ၁၉၀၉ / ၁၂၇၁ ခုနှစ်အတွင်း)၊ ဝိပဿနာဒီပနီ (အေဒီ ၁၉၁၀/ ၁၂၇၂ခုနှစ်)၊ သဘာဝဒီပနီ (အေဒီ ၁၉၁၁/ ၁၂၇၃ ခုနှစ်)၊ သုံးလောကဒီပနီ (အေဒီ ၁၉၁၆/ ၁၂၇၈ ခုနှစ်)၊ ရတနာဒီပနီ (အေဒီ ၁၉၁၇/ ၁၂၇၉ ခုနှစ်)၊ ကြောင်ပန်း ဟောစဉ် (အေဒီ ၁၉၂၆/ ၁၂၈၇ ခုနှစ်) အထွေထွေဆုံးမစာ ကဗျာလင်္ကာများ။ ယင်းကျမ်းများကို (ဝိပဿနာခြောက်စောင်တွဲ) ဟူ၍ လည်း လူသိ များကြ၏။ ကြောင်ပန်း ဝိပဿနာ ခြောက်စောင်တွဲများသည် သာသနာတွင် ပေါ်လွင်ထင်ရှား လှသော ကျမ်းစာများဖြစ်၏။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင် ၁၉၆၇ ခု ဩဂုတ်လက ပထမအကြိမ်ပုံနှိပ်ခဲ့၏။ မန္တလေး၊ စာ၊ ၂၉၅ )

ထို့ပြင် တဘောင်တစ်မျိုးလည်းရှိပါသေးသည်။ ထိုတဘောင်ကား ရှေးက တဘောင်ဖြစ်သည်။ ထိုတဘောင်ကား အခြားမဟုတ်။ "ကြောင်ပါး မီးတံတို" တဘောင်ပင်ဖြစ်ပါသည်။

(ကျမ်းကိုး၊ (၁) ထိုတဘောင်လင်္ကာကို ၁၂၈၀ ခု ဘုတလင်မြို့နယ် သားရိုးကုန်းကျေးရွာမှ ဆရာကြီး ဦးကျော်မှန်ရေးသည်ဟု ကြောင်ပန်းသာသနာဝင် စာအုပ် စာတမ်းများ၌ မှတ်တမ်းတင်ထားသည်ကို တွေ့ရှိရပါသည်။ ထိုကြောင့် လင်္ကာ၏အဓိပ္ပာယ်ဖွင့်ဆိုချက်ကို စာရေးသူအနေနှင့်သီးခြားမရေးတော့ဘဲ မြောက်ဥက္ကလာပ ကြောင်ပန်းဆရာတော်တရားပြဌာနက ရန်ကုန်ဆရာတော် (ဦးသုန္ဒရ) ရေးသောကြောင်ပန်းတောရ ဒုတိယ ဆရာတော်ကြီး၏ ထေရုပ္ပတ္တိမှ ထုတ်နုတ်၍ မူရင်းအတိုင်း ထည့်လိုက်ပါသည်။)

(ကျမ်းကိုး၊ (၂) လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင် ၁၉၆၇ ခု ဩဂုတ်လက ပထမအကြိမ်ပုံနှိပ်ခဲ့၏။ မန္တလေး၊)

(ကျမ်းကိုး၊ (၃) (ကျမ်းကိုး၊ ဦးတင်စိုး (မြွှာစရိယ) ရဟန္တာဟု ကျော်ကြားသော ကြောင်ပန်းဆရာတော်ကြီး)

# အင်ကြင်းမြောင် ဆရာတော်ဘုရားကြီး

**အေဒီ ၁၈၆၀ – ၁၉၁၆ (၁၂၂၂ – ၁၂၇၈)**





စိတ်တို့သည် တစ်ချိန်နှင့်တစ်ချိန် မတူကြပေ။ ရွယ်နုချိန်မှာ ရွယ်နုသောအတွေးကိုတွေး၏။ ရွယ်ရင့်လာသောအခါ ရွယ်ရင့်သောအတွေးကို တွေးလာကြပေတော့သည်။ ပရိယတ္တိမာန်သည် အလွန်ခက်ထန်သည်။ ကြီးမှန်းမသိ၊ ငယ်မှန်းမသိ ဖြစ်တတ်ပါသည်။ ကြီးလျှင် ကြီးမှန်းသိမှကောင်းသည်။ ငယ်လျှင်ငယ်မှန်းသိမှကောင်းသည်။ သတိထားကြပါဟု တေဝိဇ္ဇရဟန္တာဟု ဆိုကြသော နိဗ္ဗိန္ဒဆရာတော်က အောက်ပါအတိုင်းဖွင့်ဟခဲ့ပါသည်။

> ရှေးအခါက အင်ကြင်းမြောင်ဆရာတော်ဘုရားအထင်အရှား ရှိငြားသော်လည်း ၎င်းဆရာတော်ဘုရားသည် ငါတို့နှင့်ဘာထူးမှာလဲ၊ ငါတို့လည်း ပရိယတ္တိကျမ်းအရှိကိုသိသည်။ ဆရာတော်ဘုရားကြီးလည်း ၎င်းကျမ်းအတိုင်းသိသည်။ ဘာထူးမှာလဲဟု ထင်မှတ်၍ ပရိယတ္တိမာန်ခံသဖြင့် ၎င်းဆရာတော် ဘုရားကြီးထံ မသွားဘဲနေခဲ့လေသည်။
>
> (ကျမ်းကိုး။ ပြည်မြို့၊ နိဗ္ဗိန္ဒဆရာတော်ဘုရားကြီး သိက္ခာသုံးပါးပြရာကျမ်း၊ ဗုဒ္ဓသာသနာအဖွဲ့ပုံနှိပ်တိုက်၊ ၁၉၆၆ ခုနှစ်၊ စာမျက်နှာ က - ၈။)

နိဗ္ဗိန္ဒဆရာတော်ကြီးသည် မိမိကိုယ်တွေ့ တွေ့ကြုံခဲ့ရသော အင်ကြင်းမြောင်ဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိတို့ကို မှတ်တမ်းတင်ခဲ့သဖြင့် သိရခြင်းဖြစ်ပါသည်။ နိဗ္ဗိန္ဒဆရာတော်၏ ဖွင့်ဟဝန်ခံတော်မူချက်အရ သိရှိရခြင်းဖြစ်ပါသည်။

ထိုမှတ်တမ်းအရလည်း အင်ကြင်းမြောင်ဆရာတော်ဘုရားကြီးအကြောင်းကို သိသင့်သလောက်သိခဲ့ရပါသည်။ အောက်တွင်ဖတ်ကြည့်ပါ။

> ၎င်းနောက် မိမိမှာ ပေါ်ပေါက်လာသမျှ တရားကိစ္စအဝဝကို ဆရာတော်ဘုရားကြီးအား လျှောက်ထားသဖြင့် ဆရာတော်ကြီး အမိန့်ရှိသည့်အတိုင်း အားထုတ်ခဲ့ရာ ၎င်းဆွမ်းများဖြင့် လေးငါးလ မျှတ၍ နေထိုင်ခဲ့ရာ ငါးလကျော် ခြောက်လခန့်အကြာ ဒကာတစ်စုတို့က မကရွှတ်ခေါ် ကုန်းမြေပေါ်မှာ သက်န်းမိုးကျောင်းတစ်ဆောင်ဆောက်လုပ်လှူဒါန်းကြ၍ ၎င်းကျောင်းသို့ ပြောင်းရွှေ့ကာနေခိုက်မှာ သုံးရက်၊ လေးရက်အကြာ မီးလောင်စာဖြစ်၍ သွားသဖြင့် အားလုံးဒါယကာအများ စိတ်ချမ်းသာခြင်းမဖြစ်ကြ၍ နောက်ထပ်တစ်ဖန် လှူဒါန်းကြပြန်သဖြင့် ၎င်းစကြိုကျောင်း၌ မျှတကာနေစဉ် တန်ခူးလေ ခါသမယ ရောက်သောအခါ ပြည်မြို့ပေါ်ရှိ ကျောင်းဆရာကြီး ဦးရာကျော်ဆိုသူက သူ၏စိတ်ကူးအရ ၎င်းကျောင်းကုန်းကို နိဗ္ဗိန္ဒ - နိဗ္ဗိန္ဒဟု တိုင်စေ့အောင်ရေး၍ သွားသဖြင့် ယခုတိုင် နိဗ္ဗိန္ဒဟုအမည်တွင်ရသတည်း။

၁၉၁၃ နိဗ္ဗိန္ဒဟူသောအမည်သည် အေဒီ ၁၉၁၃ ခု၊ (၁၂၇၅ ခုနှစ်)ကစ၍ ဖြစ်ပေါ်လာခဲ့၏။

> (ကျမ်းကိုး။ ပြည်မြို့၊ နိဗ္ဗိန္ဒဆရာတော်ဘုရားကြီး သိက္ခာသုံးပါးပြရာကျမ်း၊ ဗုဒ္ဓသာသနာအဖွဲ့ပုံနှိပ်တိုက်၊ ၁၉၆၆ ခုနှစ်၊ စာမျက်နှာ က - ၈။)

အင်ကြင်းမြောင်ဆရာတော်ဘုရားကြီးနှင့် လေးနှစ်မျှသာနေလိုက်ရပါသည်။ ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသောအခါ အားကိုးရာမဲ့ဖြစ်သဖြင့် မြန်မာနိုင်ငံတစ်ဝန်းလုံး ကမ္မဋ္ဌာန်းဘက်ဆိုင်ရာတို့ကို လိုက်၍စုံစမ်းလေ၏။ ထိုအချိန်တွင် နိဗ္ဗိန္ဒဆရာတော်သည် အင်ကြင်းမြောင်ဆရာတော်၏ ထေရုပ္ပတ္တိကို အောက်ပါအတိုင်း မှတ်တမ်းတင်ခဲ့ပါသည်။

> အင်ကြင်းမြောင်ဆရာတော်ဘုရားကြီးသည် အင်ကြင်းမြောင်တောရ၌ သီတင်းသုံးတော်မူသော နှစ်ပေါင်းမှာ ၁၄ ဝါ ဖြစ်ကြောင်းသိရပါသည်။



၁၉၀၃ အင်ကြင်းမြောင်ဆရာတော်သည် သိက္ခာတော် ၂၃ ဝါမှာ တောထွက်တော်မူပါသည်။ (ထိုနှစ်သည် အေဒီ ၁၉၀၃ ခု ၊ သက္ကရာဇ် ၁၂၆၄ ခု၊ ဖြစ်နိုင်ပါသည်။ မှတ်ချက်)

၁၉၁၆ ထိုမထေရ်ကြီးသည် အေဒီ ၁၉၁၆ ခု၊ နိုဝင်ဘာလ ၂၄ ရက်၊ သောကြာနေ့ (သက္ကရာဇ် ၁၂၇၈ ခု၊ တန်ဆောင်မုန်းလကွယ်နေ့)၌ ပျံလွန်တော်မူပါသည်။

သက်တော် ၅၆ နှစ်၊ သိက္ခာတော် ၃၇ ဝါ။

**ထိုဆရာတော်ကြီး၏ ဂုဏ်ထူးကား -**

**(၁) အဇ္ဈောပြင်ကျယ် ကောင်းကင်လယ်မှာနေသော လဝန်းကို မိမိကျောင်းပေါ်သို့ရောက်အောင် ထင်နိုင်ခြင်းတစ်ပါး**

**(၂) သော့ခလောက်သေတ္တာအစရှိသည့်တို့ကို သော့နှင့်မခတ်ဘဲ ဂုဏ်တော်ရွတ်ရုံမျှနှင့် ကျွတ်ခြင်း၊ သေတ္တာပွင့်ခြင်း၊ ဂုဏ်ထူးတစ်ပါး။**

**(၃) သစ်ပင်တော တောင်တို့ကိုဖောက်ထွင်း၍ မြင်နိုင်သော ဂုဏ်ထူးတစ်ပါး၊**

**(၄) သူတစ်ပါး၏စိတ်ကို သိနိုင်သော ဂုဏ်ထူးတစ်ပါး၊**

**(၅) တပည့်ပေါင်းများစွာ ကမ္မဋ္ဌာန်းယူကြရာတွင် ဘယ်တပည့်ဟာ ဘယ်ဉာဏ်ကိုရောက်၍နေပြီဟု သိနိုင်သော ဂုဏ်ထူးတစ်ပါး။**

(ကျမ်းကိုး။ ပြည်မြို့၊ နိဗ္ဗိန္ဒဆရာတော်ဘုရားကြီး သိက္ခာသုံးပါးပြရာကျမ်း၊ ဗုဒ္ဓသာသနာအဖွဲ့ပုံနှိပ်တိုက်၊ ၁၉၆၆ ခုနှစ်၊ စာမျက်နှာ က - ၈။)

ဤသို့သော ဂုဏ်ထူး ဝိသေသများကို နိဗ္ဗိန္ဒဆရာတော်၏ မှတ်တမ်းကြောင့် သိရှိရပါသည်။ နိဗ္ဗိန္ဒဆရာတော်သည် အင်ကြင်းမြောင် မထေရ်အရှင်မြတ်ကြီးထံမှာ လေးနှစ်တိတိ တပည့်ခံလိုက်ရပြီးနောက် နိဗ္ဗိန္ဒဆရာတော်သည် အောက်ပါအတိုင်း မှတ်တမ်းတင်ထားခဲ့ပါသည်။

ထိုမထေရ်ကြီးထံ၌ လေးနှစ်မျှသာ နည်းနိဿယခံလိုက်ရသော မထေရ်ကြီးနှင့် မက္ခာမလှမ်း နိဗ္ဗိန္ဒ တောင်တန်း၌ သီတင်းသုံးနေထိုင်သော (သီရိ) အမည်ရှိသော ရဟန်းငယ်သည် အင်ကြင်းမြောင်ဆရာတော်ကြီး ပျံလွန်တော်မူသောအခါ ပြည် နိဗ္ဗိန္ဒဆရာတော် ရှင်သီရိသည် တစ်တောထွက်ဝင် တစ်တောင်ဝင်၍ ကမ္မဋ္ဌာန်းဘက်ဆိုင်ရာများကို လိုက်၍စုံစမ်းတော်မူခဲ့လေသည်။

(ကျမ်းကိုး။ ပြည်မြို့၊ နိဗ္ဗိန္ဒဆရာတော်ဘုရားကြီး သိက္ခာသုံးပါးပြရာကျမ်း၊ ဗုဒ္ဓသာသနာအဖွဲ့ပုံနှိပ်တိုက်၊ ၁၉၆၆ ခုနှစ်၊ စာမျက်နှာ က - ၈။)

၎င်းနောက် နိဗ္ဗိန္ဒဆရာတော်သည် တရားရှာတော်ပုံ ထွက်တော်မူခဲ့လေသည်။ ဤတွင်ဆရာတော်သည် ပြည်မှ ရန်ကုန်သို့ရောက်၏။ ပဲခူးသို့လည်းရောက်၏။ သထုံသို့လည်းရောက်၏။ မင်းကွန်းဆရာတော်ဘုရားကြီးထံလည်းရောက်၏။ မော်လမြိုင်သို့လည်းရောက်၏။ ကျိုက်ထိုသို့လည်းရောက်၏။ သေကျွတောင် ဦးတိလောကထံသို့လည်းရောက်၏။ ပျဉ်းမနားသို့လည်းရောက်၏။ လယ်တီဆရာတော်ထံသို့လည်းရောက်၏။ မန္တလေးသို့လည်းရောက်၏။ စစ်ကိုင်း ယောသိတာဝံဆရာတော် ဘုရားကြီးထံလည်းရောက်၏။ ဂန္ဓာရုံဆရာတော်ဘုရားထံလည်းရောက်၏။ ထိုအချက်တို့ကို ဆရာတော်ကိုယ်တိုင် အောက်ပါအတိုင်း ပြန်လည်မိန့်ကြားခဲ့ပါသည်။

(အင်ကြင်းမြောင်)ဆရာတော်ဘုရားကြီး အလောင်းတော်ကို သဂြိုဟ်ပြီးနောက် များမကြာမီ သူရိယ၊ သုမန၊ ဩဘာသ တပည့်သုံးပါး ဒါယကာတစ်ယောက်နှင့် ပြည်မြို့မှ ရန်ကုန်သို့ထွက်ခွာသွားရာ ရွှေတိဂုံဘုရားကို ဖူးမြော်ရန် ကုန်းတော်ပေါ်သို့တက်၍



ဘုရားဖူးခေတ္တနားနေပြီးနောက် ရထားချိန်နီးကပ်၍ ပဲခူးမြို့သို့ ဆက်လက်သွားကြရာ ပဲခူးမြို့မှာတစ်ညနား၍ ရွှေမော်ဓောဘုရားဖူးပြီး သထုံသို့ ဆက်လက်ရထား စီးသဖြင့် သထုံသို့ရောက်သောအခါ သထုံရွှေစက်တော်ဘုရားကိုဖူးမြော်၍ အနည်းငယ်နားနေ ပြန်ရောက်ကြသဖြင့် တပည့်သုံးပါးနှင့် ခွဲခွာခဲ့ကြောင်း ကပ္ပိယတစ်ယောက်သာ ခေါ်ဆောင်ကာ ဖြူးမြို့သို့အရောက်သွားလေသော် ညနေချမ်းခါ ဖြူးမြို့သို့ ရထား ဆိုက်သဖြင့် သူဌေးဦးသက်အိမ်မှာ နှစ်ရက်ခန့်နားနေပြီး သေက္ခတောင် ဦးတိလောက ထံသို့စုံစမ်းသွားရာ ဦးတိလောက ဖိုဝင်နေခိုက်နှင့် ကြုံကြိုက်နေသဖြင့် ဖိုရုံကထွက် လာ တွေ့ရသောအခါ ဘာတစ်ခုမှမစုံစမ်းတော့ဘဲ အလွတ်အာလာပသလ္လာပစကား များကိုသာ ပြော၍ပြန်ခဲ့လေ၏။

၁၉၇၇ ဤသို့အားဖြင့် အင်ကြင်းမြောင်ဆရာတော်ဘုရားကြီးအကြောင်းကို မှတ်တမ်းတင်ခဲ့ သော တေဝိဇ္ဇရဟန္တာဟုဆိုကြသောပြည်မြို့၊ နိဗ္ဗိန္ဒဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၇၇ ခု၊ ဖေဖော်ဝါရီ ၁၁ရက် (၁၃၃၈ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၉ ရက်) သောကြာနေ့နံနက် ၂ နာရီ ၁၅ မိနစ်၊ သက်တော် ၉၁ နှစ်၊ သိက္ခာတော် ၇၁ ဝါ အရမှာ စုတိ ကမ္မဇရုပ် ချုပ်ငြိမ်းတော်မူကြောင်းသိရပါသည်။

(ကျမ်းကိုး။ (၁) ပြည်မြို့၊ နိဗ္ဗိန္ဒဆရာတော်ဘုရားကြီး သိက္ခာသုံးပါးပြရာကျမ်း၊ ဗုဒ္ဓသာသနာ အဖွဲ့ပုံနှိပ်တိုက်၊ ၁၉၆၆ ခုနှစ်၊ စာမျက်နှာ က - ၈။ (၂) ဓမ္မာစရိယ ဦးဌေးလှိုင် ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ၊ ဆဋ္ဌမအကြိမ် ၁၉၈၅ ခုနှစ်၊ သတင်းဂျာနယ် ပုံနှိပ်တိုက်၊ စာမျက်နှာ ၃၇၇၊ (၃) အရှင်ကေလာသ။ ဓမ္မာစရိယ၊ ဂဏဝါစက ဝိဇ္ဇာဂုဏ်ထူး၊ (သီရိလင်္ကာ) စစ်ကိုင်း သာသနာဝင် သာသနာ့ရေးဦးစီးဌာန၊ ၁၉၇၉ ခုနှစ်၊ ဒီဇင်ဘာလ ပထမအကြိမ်၊ စာ ၁၆၅ - ၂၇၉။ (၄) မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၂၀)၊ ၁၅-၈-၂၀၀၅။)

၁၉၁၆ အင်ကြင်းမြောင်မထေရ်မြတ်ကြီးသည် အေဒီ ၁၉၁၆ ခု၊ နိုဝင်ဘာလ ၂၄ ရက်၊ သောကြာနေ့ (သက္ကရာဇ် ၁၂၇၈ ခု၊ တန်ဆောင်မုန်းလကွယ်နေ့)၌ ပျံလွန်တော်မူပါ သည်။ သက်တော် ၅၆ နှစ်၊ သိက္ခာတော် ၃၇ ဝါ။

(ကျမ်းကိုး။ ပြည်မြို့၊ နိဗ္ဗိန္ဒဆရာတော်ဘုရားကြီး သိက္ခာသုံးပါးပြရာကျမ်း၊ ဗုဒ္ဓသာသနာ အဖွဲ့ပုံနှိပ်တိုက်၊ ၁၉၆၆ ခုနှစ်၊ စာမျက်နှာ က - ၈။)

ရဟန္တာအရှင်မြတ်ကြီး

# ညောင်လွန့်တောရဆရာတော်

ခအဒီ ၁၈၆၈ - ၁၉၃၃ (၁၂၂၉ - ၁၂၉၅ )





ညောင်လွန့်ဆရာတော်ဘုရားကြီးသည် ရဟန္တာအရှင်မြတ်ကြီးဖြစ်ကြောင်း မျက်မှောက်ခေတ်သာသနာ့သမိုင်းတွင် မော်ကွန်းထိုးကြပါသည်။

တရားထူးရတော်မူသောဌာနနှင့် အချိန်ကာလတို့မှာ အောက်ပါအတိုင်းဖြစ်ကြောင်း သိရှိရပါသည်။ ပထမ တရားထူးရသောအချိန်နှင့် ဒုတိယ တရားထူးရသောအချိန်တို့မှာ ကြားကာလ ၇ ရက်သာ ကြာမြင့်ပါသည်။ ၎င်းနောက် ၂ ရက်ကြာသောအခါ ဒုတိယအကြိမ် တရားထူးရသည်။ ၎င်းနောက် ၂ ရက်ကြာသောအခါ တတိယအကြိမ် တရားထူးရပါသည်။ ၎င်းနောက် ၂ ရက်ကြာ ပြန်သောအခါ စတုတ္ထအကြိမ် တရားထူးရပါသည်။ အလွန်အံ့ဩဖွယ် ကြည်ညိုဖွယ် ဖြစ်ပါသည်။

၁၉၂၀ ၁။ အေဒီ ၁၉၂၀ မေလ ၂၇ ရက်၊ ကြာသပတေးနေ့ ၁၂၈၂ ခုနှစ်၊ နယုန်လဆန်း(၁၁)ရက်နေ့နံနက် (၃)နာရီအချိန် ညောင်လွန့်တောရ ဝတ်ရုံကျောင်းကြီးပေါ်ရှိ ကြိမ်ကုလားထိုင်ကြီးဘေးတွင် ပဌမ မဂ်ဖိုလ်ကို ရတော်မူသည်။

၁၉၂၀ ၂။ အေဒီ ၁၉၂၀ ဇွန်လ ၃ ရက်၊ ကြာသပတေးနေ့ ၁၂၈၂ ခုနှစ် နယုန်လဆုတ်(၃)ရက်နေ့ ညဥ့်(၁၁)နာရီအချိန် အဆိုပါ ဝတ်ရုံကျောင်းပေါ်ရှိ စာချသော အခန်းတွင်းတွင် ဒုတိယ မဂ်ဖိုလ်ကို ရတော်မူသည်။

၁၉၂၀ ၃။ အေဒီ ၁၉၂၀ ဇွန်လ ၅ ရက်၊ စနေနေ့ ၁၂၈၂ခုနှစ် နယုန်လဆုတ် (၅) ရက်နေ့ နံနက် အရုဏ်တက်ခါနီး (၄) နာရီခန့်အချိန် အရှေ့ဘက် ကမ္ဘောဇနန်းချောင်ယခု ရုပ်ပွားတော်ကြီး၏ အရှေ့ဘက်၌ရှိသော ရုံပိုင်ကြီးကျောင်းခေါ် ဖန်ခါးပင်ကျောင်းပေါ်တွင် တတိယ မဂ်ဖိုလ်ကို ရတော်မူသည်။

၁၉၂၀ ၄။ အေဒီ ၁၉၂၀ ခု၊ ဇွန် ၇ ရက်၊ တနင်္လာနေ့ ၁၂၈၂ ခုနှစ် နယုန်လဆုတ် (၇) ရက်နေ့ နံနက် အရုဏ်တက် (၄) နာရီခွဲခန့် ပဌမ မိုးနံကုန်း ဆရာတော်ဘုရားကြီး၏ အရိုးအိုးစေတီတော်ရှေ့ရှိ အာရုံခံတန်ဆောင်း အုတ်နံရံကိုမှီ၍ မြောက်လှည့်လျက် စတုတ္ထမဂ်ဖိုလ်ကို ရတော်မူ၍ ရဟန်းကိစ္စပြီးဆုံးတော်မူသည်။

(ကျမ်းကိုး။ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၉ -၁၀)

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် စတုတ္ထအကြိမ် တရားထူးရပြီးသောအခါ မိမိကဲ့သို့ပင် တရားထူးရစေရန် အထူးတိုက်တွန်းတော်မူကြောင်း မှတ်တမ်းရှိပါသည်။

၁၉၂၀ ကျေးဇူးတော်ရှင် ညောင်လွန့်တောရဆရာတော်ဘုရားကြီးသည် တရားထူးကို ရတော်မူပြီးစ အေဒီ ၁၉၂၀ ဇွန် (၁၂၈၂ ခုနှစ်) ဝါဦး အချိန်ကာလတွင် ညောင်လွန့်တောရကျောင်းတိုက် ပဌမတိုက်ကြပ် ဆရာတော် ဦးနန္ဒိယ အမှူးရှိသော တပည့်ကြီးတို့ကို မိမိကျောင်းသို့ခေါ်တော်မူ၍ မိမိတရားထူးရသလိုရကြရန် အထူးတရားကိုအားထုတ်ဖို့ တိုက်တွန်းဟောပြရင်း ဝန်ခံတော်မူလေသည်။

## မိမိ ရဟန်းကိစ္စပြီးကြောင်း တိုင်တည်ခြင်း

၁၉၂၁ အေဒီ ၁၉၂၁ ခု (၁၂၈၃ ခုနှစ်) နှစ်ဦးတွင် ကြွရောက်လာကြကုန်သော ယခုမြင်းခြံစွန်းလွန်းဂူကျောင်း ဆရာတော် ဦးကဝိ ဦးဝိစာရ၊ မိတ္ထီလာ ချုံစွန်းဆရာတော် ဦးဝိဇယ စသော ယောဂီတပည့်ကြီးများ ထံမှောက်၌လည်း မိမိရဟန်းကိစ္စပြီးကြောင်း ဝန်ခံတော်မူ၍ တရားကို ကြိုးစားအားထုတ်ကြရန် တရားဟောတော်မူလေသည်ဟု သိရပါသည်။

## မြင်းခြံ စွန်းလွန်းဂူကျောင်း ဆရာတော် ဦးကဝိ၏တစ်ထစ်ချ ဆုံးဖြတ်ချက်



၁၉၃၃ ညောင်လွန့်တောရ ဆရာတော်ကြီး ပရိနိဗ္ဗာန် ဝင်စံတော်မူစဉ်ကာလ အေဒီ ၁၉၃၃ ခုနှစ်လ (၁၂၉၅ ခုနှစ် နယုန်လ) ညောင်လွန့်တောရသို့ ဈာပနကိစ္စတွင် ကြွရောက်လာသော မြင်းခြံ စွန်းလွန်းဂူကျောင်းဆရာတော် ဦးကဝိနှင့် အကြောင်းအရာ ဆွေးနွေးတိုင်ပင်စဉ်က တစ်ကြိမ်၊

ထိုနောက် အေဒီ ၁၉၃၃ ခု ဖေဖော်ဝါရီလ (၁၂၉၅ ခုနှစ် တပေါင်းလ)တွင် မြင်းခြံစွန်းလွန်း ဂူကျောင်းသို့ အလည်အပတ် ကြွရောက်၍ ဆရာတော် ဦးကဝိနှင့် ညောင်လွန့်တောရဆရာတော်၏ အကြောင်းအရာကို ဆွေးနွေးတိုင်ပင်စဉ်ကတစ်ကြိမ်၊

**ဆရာတော် ဦးကဝိကိုယ်တိုင်ပင် ကျေးဇူးတော်ရှင် ညောင်လွန့်တောရ ဆရာတော်ဘုရားကြီးသည် ဧကန်အမှန်စင်စစ် ရဟန်းကိစ္စပြီးကြောင်းကို တထစ်ချ ဆုံးဖြတ်ပြောဆိုတော်မူခဲ့ဖူးလေသည်ဟု သိရပါသည်။**

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၁၀-၁၁)

## တရားထူးရပုံအံ့ဖွယ်

ညောင်လွန့်ဆရာတော်ဘုရားကြီး တရားထူး တရားမြတ်ရသည်ကို အလွန်အံ့ဩဖွယ်ဖြစ်သဖြင့် အချို့ကလည်း မယုံတစ်ခက် ယုံတစ်ခက် ဖြစ်နေပုံရပါသည်။ ထို့အခါ ဆရာတော်ကြီးက တရားထူးရသည်မှာ မိုးကြိုးပစ်သည်ထက် သိသာထင်ရှားပါသည်ဟု မိန့်တော်မူခဲ့သည်ဟုဆိုပါသည်။

**တရားထူးရသောကိစ္စတွင် အချို့က မယုံကြည် အချို့က ယုံကြည်ဖြစ်နေကြသဖြင့် အကြီးဆုံး မထေရ်ကြီးဖြစ်သော တောက်တွေ့ဝေဠုဝန်ဆရာတော်ဘုရားကြီးနှင့် လယ်ဝေးဆရာတော်ဘုရားကြီး ဦးအာစရ အရှင်မြတ်ကြီးတို့က ထန်းတပင်တောရ ဆရာတော်ဦးစန္ဒနကို တစ်ပါးတည်း အလျှောက်ထားခိုင်းရာ ညောင်လွန့်တောရ ဆရာတော်ဘုရားကြီးက အမိန့်တော်ရှိသည်မှာ 'တို့ဟာ ကိုယ့်ကို ဖိုးသူတော်ဖြစ်အောင် ဝါကြွားပလွှား ပြောမဲ့အစားလားဆိုတာ သိကြရမယ်၊ တို့ဟာ စာပေကျမ်းဂန်တွေ လေ့ကျက်ပို့ချနေတာ၊ အဓိမာနလား၊ အဟုတ်လားဆိုတာမှ မသိဘဲနေပါလား၊ တရားဆိုတာ မျက်မှောက်ရရှိသော ပုဂ္ဂိုလ်များမှာ မိုးကြိုးပစ်သည်ထက် ထင်ရှားပါတယ်ဟူ၍ အမိန့်ရှိလိုက်လေသည်။**

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၁၂)

## ညောင်လွန့်တောရဆရာတော်ဘုရားကြီး၏ ဇာတာတော်

ညောင်လွန့်ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုတော်မူသောအခါမှ ညောင်လွန့်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ စာအုပ်ကထွက်ရှိလာပါသည်။ ထိုအခါမှ ထူးခြားချက်များကို ဖတ်ရှုရပါသည်။ စက်လက္ခဏာဟူသော စကားကို အောက်တွင်ဖတ်ကြည့်ပါ။

## စက်လက္ခဏာ ပါရှိခြင်း

၁၈၆၈ မယ်တော်၏ ဝမ်းဗိုက်မှမွေးဖွားရ၍ ဖဝါးတော်၌ ထူးခြားချက် စက်လက္ခဏာပါရှိသည်ဟုသိရပါသည်။



ကျေးဇူးတော်ရှင် ညောင်လွန့်တောရဆရာတော်ဘုရားကြီး ဖြစ်လတ္တံ့သော အလောင်းလျာမြတ်သည် အေဒီ ၁၈၆၈ ခု၊ ဖေဖော်ဝါရီလ ၁၉ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၂၂၉ ခုနှစ် တပေါင်းလပြည့်ကျော် ၁၂ ရက်) ကြာသပတေးနေ့ ညဥ့်တစ်ချက်တီး ကျော် ၄ နာရီအချိန်၌ မိတ္ထီလာမြို့အနောက်ဘက် အိုင့်ရွာတွင် အဘဘုန်းကြီး ဦးမှုတ် အမိ ဘုန်းကြီးမယ်တော်ဒေါ်ဂုံတို့၏ ကြာဝမ်းတိုက်မှ မီးရှူးသန့်စင် ဖွားမြင်တော်မူ လေသည်။

(ကျမ်းကိုး။ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၁၉)

## ခြေဖဝါးတော်မှ စက်လက္ခဏာတော် မျက်မြင်သက်သေ

ညောင်လွန့်ဆရာတော်ဘုရားကြီး၏ ခြေဖဝါးတော်က စက်လက္ခဏာကွက်ကြီးကို မျက်မြင် ကိုယ်တွေ့ ကြုံရသည့်အတိုင်း မှတ်တမ်းတွင်ပါရှိပါသည်။

အဆိုပါ စက်လက္ခဏာကွက်ကြီးကား နောင်သောအခါ ဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကို ဦးစီး၍ ရေးသားသော ညောင်လွန့်တောရ တိုက်အုပ် ဆရာတော် ကိုယ်တိုင်ပင် ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်ကာလ က ခြေဖဝါးကို ဝတ်ပြုရင်း မျက်ဝါးထင်ထင် တွေ့ရှိဖူးမြင် လိုက်ရပေသည်ဟု သိရပါ သည်။

ဆရာတော် ဦးကေသာရ အထံတော်၌ပင် ရဟန်းတို့၏ ကျင့်ဝတ်ဖြစ်သော ဒွေမာတိကာ ခုဒ္ဒသိက္ခာစသော ဝိနည်းကျမ်းငယ်များကို သင်ယူကုန်ဆုံး တတ်မြောက် တော်မူလေသည်။

ရဟန်းငါးဝါရတွင် ပျော်ဘွယ်မြို့ အရှေ့တောင်တစ်မိုင်ခန့်အကွာ မိုးနံကုန်း ရွာကျောင်း မိုးနံကုန်းဆရာတော် ဘုရားကြီးအထံတော်သို့ ကြွရောက် သီတင်းသုံးနေ ထိုင်တော်မူလေသည်။

(ကျမ်းကိုး။ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၂၅)

## ညောင်လွန့် ဆရာတော်ဘုရားကြီး၏ ဆရာ ဘယ်သူလဲ

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် တရားထူး တရားမြတ်ရတော်မူ၍ ရဟန္တာအရှင်မြတ် ကြီးအဖြစ် ရပ်ဝေး ရပ်နီး ကျော်စောပါသည်။ ဆရာတော်ဘုရားကြီး၏ ကျေးဇူးရှင်ဆရာမှာ မိုးနံကုန်း ဆရာတော်ဘုရားကြီးဖြစ်ပါသည်။ ထိုဆရာတော်ဘုရားကြီးထံ ပညာများ သင်ကြားခဲ့ရပုံကို လေ့လာတွေ့ ရှိရပါသည်။

## နှုတ်တက်ရွရွ

နေ့ဝါ ညဝါ အခြေရပြီးသောအခါ ပါဠိတော်တို့နှင့်တကွ ဝိနယအဋ္ဌကထာကြီး ၄ ကျမ်း အဘိဓမ္မာ အဋ္ဌကထာကြီး ၇ ကျမ်းတို့ကို ခဲရာခဲဆစ် ဝိနိစ္ဆယတို့နှင့်တကွ မေးမြန်းလျှောက်ထားရင်း စာဆိုတော်အဖြစ်ဖြင့် သင်ယူတော်မူရလေသည်။

အထူးအံ့ဩဖွယ်တစ်ရပ်မှာ မိုးနံကုန်း ဆရာတော်ဘုရားကြီး ထံမှောက်၌ သင်ယူနေစဉ် ဝိနယအဋ္ဌကထာကြီး ၅ ကျမ်း ဝိနည်းငယ်လေးစောင် အဘိဓမ္မာ



အဋ္ဌသာလိနီ အဋ္ဌကထာကြီး ဋီကာကျော်ကျမ်းတို့ကို ရှေ့ပလ္လင် နောက်ပလ္လင် ပေါက်အနက် လှည့်တော်မူလေသည်။

၎င်းအပြင် အဘိဓာန်ဘုရားကြီးနိယံ ဝိနည်းငယ်လေးစောင် ပါဠိတို့ကိုလည်း နှုတ်တက်ရွရွ ပြန်ဆိုတော်မူနိုင်လေသည်။

## ရေနံချေး သုတ်လိမ်းရခြင်း

ယင်းသို့ ပရိယတ်ကို လွန်စွာအားထုတ်တော်မူလွန်းလှ၍ တစ်ခါတစ်ခါ၌ ဒူးဆစ်ထိအောင် အေးမြလာလျက် သွေးလေမလျှောက်သလို ဖြစ်လာသောကြောင့် ရေနံချေးကို သုတ်လိမ်း၍ ဒူးဆစ်ခြေတို့ကို နေလှန်းတော်မူရလေသည်။ တစ်ခါတစ်ခါ မသက်သာလှ၍ မိမိဇာတိနေရပ် အိုင့်ရွာကျောင်းသို့ပင် ပြန်ကြွ၍ဆေးကုရလေသည်။

(ကျမ်းကိုး။ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၂၈)

## အံ့ဖွယ် ကောင်းအောင် အားထုတ်တော်မူခြင်း

စာသင်ကြားရာတွင် သွေး,လေ မလျှောက်သဖြင့် ရေနံချေးကိုပင် သုတ်လိမ်းရသည်ဟု ဆိုပါသည်။ ဆရာတော်ဘုရားကြီး၏ ဇွဲတော် လုံ့လ ဝီရိယတော်ကို အံ့သြဖွယ် လေ့လာတွေ့ရှိရပါသည်။

မိမိနေရင်းမှ ကျန်းမာ၍ ပြန်ကြွလာသောအခါ၌လည်း ဝီရိယကို အလျှော့မပေးဘဲ ရှေးကလိုပင် ပဋိပတ်ကို အားထုတ်တော်မူလေသည်။

## ည ၁၀ နာရီအထိ

ညဥ့်ဘက်၌လည်း မိုးနံကုန်းဆရာတော်ဘုရားကြီး အထံတော်၌ အဘိဓမ္မာ ညဝါများကို ဆိုတော်မူပြီးလျှင် မိမိနေသောကျောင်းပေါ်သို့ မတက်သေးဘဲ ကျောင်းဝိုင်းတွင်း မြေတလင်းပေါ်၌ စင်္ကြံလျှောက်သွားလျက် ညဥ့် (၁၀) နာရီတိုင်အောင် စာများကို ပြန်လှန်သရဇ္ဈာယ်ပြီးလျှင် တစ်ဖန် မိုးနံကုန်းဆရာတော်ဘုရားကြီး အထံတော်သို့ ဝတ်ဖြည့်ရန်သွားပြီးလျှင် ပြန်လာသောအခါ ကျန်သေးသော စာများကို သရဇ္ဈာယ်ပြန်လေသည်။

ထို့နောက် မိမိနေသော ကျောင်းပေါ်သို့တက်၍ မိုးနံကုန်းဆရာတော်ဘုရားကြီးအထံ၌ စာတက်သောအခါက မိန့်ကြားဆုံးဖြတ်တော်မူအပ်သော ခဲရာခဲဆစ် အဓိပ္ပါယ်များကို ဗလာစာအုပ်ပေါ်၌ မှတ်သားပြီးလျှင် အိပ်ရာဝင်သောအခါ ကောဋ္ဌာသကို နှလုံးသွင်းပြီးမှသာ ဣရိယာပုတ် မျှတရုံ ၁ နာရီခန့် အများဆုံး ၂ နာရီခန့်သာ ကျိန်းစက်တော်မူလေသည်။

## နံနက် ၃ နာရီ မှ မိုးလင်းအထိ

တစ်ဖန် နံနက် ၃ နာရီမထိုးခင် အချိန်က ထတော်မူ၍ ၃ နာရီ ထိုးသောအခါ မိုးနံကုန်းဆရာတော်ဘုရားကြီး အထံတော်သို့ တံပူ မျက်နှာသစ်တော်ရေ မျက်နှာသုတ် ပဝါတို့ကိုဆက်ကပ်၍ ဆရာတော်ဘုရားကြီး မျက်နှာသစ်ခြင်း ကိစ္စပြီးအောင် စောင့်ဆိုင်း၍ပြီးသောအခါ ရေခွက် မျက်နှာသုတ်ပဝါတို့ကို ထားမြဲတိုင်းနေရာ၌ ထားပြီးလျှင် မိမိကျောင်းသို့ပြန်လာ၍ မအိပ်တော့ဘဲ ဆရာတော်ဘုရားကြီး စာဝါ၌



မိန့်ဆိုဆုံးဖြတ်လိုက်သော ဝိနိစ္ဆယ ခဲရာခဲဆစ်တို့ကို တစ်ဖန်ပြန်၍ နှလုံးသွင်းပြီးသည့် အဆုံး၌ ကောင္ခါသကမ္မဌာန်းကိုပင် နှလုံးသွင်းအားထုတ်လျက် မိုးလင်းသွားတော့သည်။

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၉ -၁၀)

## ကျမ်းပေါက်ခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် မိုးနံကုန်းဆရာတော်ကြီးထံမှာ စာပေကျမ်းဂန်များ ပေါက်မြောက်အောင်မြင် တတ်သိတော်မူခဲ့ကြောင်းသိရပါသည်။

(၁၅) နှစ်တိုင်တိုင် မိုးနံကုန်း ဆရာတော်ဘုရားကြီး၏ အထံတော်၌ ပရိယတ်ကိုသင်ယူအားထုတ်တော်မူလေသည်။ မိုးနံကုန်းဆရာတော်ဘုရားကြီး၏ အထံတော်မှာ အခြေစာဝါ နေ့ဝါ ညဝါများနှင့်တကွ ဝိနယပိဋကအဘိဓမ္မာပိဋကတတ်တို့ကို ပေါက်ရောက်အောင်မြင်တတ်သိတော်မူလေသည်။

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၃၀)

## တောထွက်ခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် ရဟန်းသိက္ခာ ဝါတော် ၂၀ ရရှိပြီးသည့်နောက် ရှမ်းရွာအနောက်ဘက် မင်လိုတောင်ပေါ်သို့ တောထွက်တော်မူခဲ့ကြောင်းသိရပါသည်။

ရဟန်းသိက္ခာဝါ ၂၀ နှစ်ဆယ်ရရှိ လုံးလုံးပြည့်ဝသဖြင့် ကျေးဇူးတော်ရှင် မိုးနံကုန်းဆရာတော် ဘုရားကြီးအား ရိုသေလေးမြတ်စွာ အကြိမ်ကြိမ်ခွင့်ပန် လျှောက်ထားတောင်းပန်တော်မူပြီး၍ အခွင့်ရသောအခါ ပျော်ဘွယ်မြို့မြောက်ဘက် ရှမ်းရွာဘုတာရှေ့ လင့်စင်ကုန်းဆရာတော်ဘုရားကြီး အထံတော်သို့ ကြွတော်မူ၍ ရှေးအဖို့ကကတိကဝတ်ဖြင့် တိုင်ပင်တော်မူဖူးသည့်အတိုင်း အဆိုပါ လင့်စင်ကုန်း ဆရာတော်ဘုရားကြီးနှင့်အတူ ရှမ်းရွာအနောက်ဘက်ရှိ မင်လိုတောင်ပေါ်သို့ တောထွက်တော်မူကြလေသည်။

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၃၁)

## ပစ္စည်းများ စွန့်ပစ်ခြင်း

ထိုသို့ တောထွက်တော်မူသောအခါ လင့်စင်ကုန်းဆရာတော်ဘုရားကြီးသည် မိမိ၏ ပုဂ္ဂလိကပိုင်ပစ္စည်း လှည်းအစီးပေါင်း ၃၀ ကျော်မျှ အတိုင်းအတာရှိသော ပစ္စည်းများကို ကျောင်းရှေ့ တလင်းပြင်တွင် စွန့်ပစ်ကာလိုက်ပါတောထွက်တော်မူခဲ့ကြောင်းသိရပါသည်။

အဆိုပါ လင့်စင်ကုန်းဆရာတော်ဘုရားကြီးသည် မိမိ၏ ပုဂ္ဂလိကပိုင် ပစ္စည်းလှည်းအစီး ၃၀ ကျော်ခန့်ရှိသော သင်ဖျာ ခေါင်းအုံး ပန်းကန်ခွက်ယောက် ကရား သကာန်း သပိတ် စသော ဥစ္စာတို့ကို မိမိကျောင်းရှေ့ တလင်းတွင်းမှာပင် ချထားစုပုံပြီး အလိုရှိသူများ ယူကြပါစေဟု စွန့်ပစ်ခဲ့သည့်အပြင် ဂေါစရဂါမ်ရွာတို့မှ မည်သူ့အားမှ မပြောကြားဘဲ အရှင်မေဓာဝီမထေရ်နှင့်အတူ တပါတည်းပင် မင်လိုတောင်ပေါ်သို့ တောထွက်တော်မူလေသည်။

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၃၂)



ထိုအခါ ဒကာ ဒကာမများ အလာများသောကြောင့် ထိုနေရာကို စွန့်ခွာခဲ့ကြကြောင်း သိရပါသည်။ သို့နှင့် ပျော်ဘွယ်မြို့ မိုးနံကုန်းသို့ ရောက်ခဲ့ရပေသည်။

အရှေ့ဘက်ရှာ သနပ်ခါးတောစသောရွာတို့မှ လင့်စင်ကုန်းဆရာတော်ဘုရား၏ ဒကာ ဒကာမအရင်းတို့သည် တဖြည်းဖြည်းအလာများလာခြင်းကြောင့် တောထွက်ပြီး ရဟန်းတရားကို မရမနေအားထုတ်ဖို့အလုပ် ကောင်းမွန်စွာ အောင်မြင်လိမ့်မည်ဟု မထင်တော့သဖြင့် မင်လိုတောင်ပေါ်၌ တစ်ဝါဆိုပြီး ဝါလကျွတ်သောအခါ ပျော်ဘွယ်မြို့ မိုးနံကုန်းရွာ ကျေးဇူးတော်ရှင် မိုးနံကုန်းဆရာတော်ဘုရားကြီး အထံတော်သို့ တစ်ဖန်ပြန်ကြွတော်မူခဲ့လေသည်။

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၃၃)

ထိုသို့ တောထွက်သောအခါ ရွာသာရွာနှင့် ပျော်ရွာတို့၏ အရှေ့ဘက် တစ်မိုင်ခန့်ဝေးသော တောရကျောင်းသို့ ရောက်တော် မူခဲ့ကြပြန်လေသည်။ ထိုနေရာမှာ ရသေ့ကြီး ဦးခန္တီ၏ ဇာတိချက်မြှုပ်ရွာ ဖြစ်လေသည်။

## ရသေ့ကြီး ဦးခန္တီ၏ ဇာတိ ချက်မြှုပ်ရွာ

မိုးနံကုန်းဆရာတော်ဘုရားကြီးနှင့် အရှင်မေဓာဝီမထေရ်တို့သည် ညောင်လွန့်ဘူတာသို့ ရောက်တော်မူကြရာ ရထားမှဆင်းသက်၍ ညောင်လွန့်ဘူတာမှ အနောက်မြောက် ရှင်းရောင်တာပေါင်း တစ်ထောင်ခန့်၊ မိုင်အားဖြင့် တစ်မိုင်နှင့်ငါးဖာလုံခန့်ကွာဝေး၍ မန္တလေးမြို့ ရသေ့ကြီးဦးခန္တီ၏ မွေးဖွားရာဇာတိ ချက်မြှုပ်ဖြစ်သော ရွာသာရွာနှင့် ပျော်ရွာ၏ အရှေ့ဘက်တာ ၅၀၀ မိုင် အားဖြင့် တစ်မိုင်ခန့်သာ ဝေးကွာသော ဆရာတော်ဦးဇော၏ တောရကျောင်း သို့ရောက်တော်မူကြလေသည်။

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၃၇)

ဖော်ပြပါရှိသော ရွာသာရွာသည် ယခုအခါပျော်ရွာ၏ အနောက်တောင် သေနတ်တစ်ပစ်ခန့်သာ ဝေးကွာလျက် အိမ်မရှိတော့ဘဲ လယ်နှင့်ခြံတို့သာရှိတော့၍ မန္တလေးမြို့မှ ရသေ့ကြီးဦးခန္တီသည် သူ၏ မွေးဖွားရာအိမ်နေရာ၌ အိမ်တော် ဘုရားစေတီတော်တစ်ဆူနှင့်လေးဘက်မှ သံစောင်းတန်း အရှေ့ဘက်မှ တင်ပျဉ်ခွေ ဘုရားကြီးခုနစ်ဆူ မတ်တတ်ရပ်နှစ်ဆူ သုမေဓာ ဗျာဒိတ်ပေးခန်းတစ်ဆူနှင့် အနောက်ဘက်မှ လျောင်းတော်မူရုပ်ပွားကြီးတစ်ဆူ အထက်ခြေတော်ရာ အောက်ခြေတော်ရာနှစ်ဆူတို့ကို တည်ထားရာ ယခုတိုင်အပြီးမသတ်ဘဲ ကျန်ရစ်ခဲ့လေသည်။ ရသေ့ကြီးဦးခန္တီကိုမွေးဖွားပြီး လူလား မမြောက်ခင်ပင် ရမည်းသင်းမြို့၏ အရှေ့သိမ်ကုန်းကြီးရွာသို့ ရွှေ့ပြောင်းသွားကြလေသည်ဟုဆိုပါသည်။

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၃၈)

၎င်းနောက် ပျော်ရွာတောရကျောင်းသို့ ရောက်ရှိလာခဲ့ကြလေသည်။ ထိုနေရာကား ယခုအခါ ညောင်လွန့်တောရကျောင်းဟူသော နေရာပင်ဖြစ်လေသည်။

## ညောင်လွန့်ရွာသို့ ရောက်ရှိခြင်း

မိုးနံကုန်းဆရာတော်ဘုရားကြီး ဆရာတော်ဦးဇော၊ အရှင်မေဓာဝီမထေရ်တို့သည် မိုးနံကုန်းမှ တောထွက်၍ ညောင်လွန့်ပျော်ရွာတောရကျောင်းမှာရောက်၍ သီတင်းသုံး နေတော်မူကြပြီတဲ့ဟူ၍ အဝေးအနီးမှ ကြားသိတော်မူကြကုန်သော မိုးနံကုန်း



ဆရာတော်ဘုရားကြီး၏ တပည့်ကြီးများ ဖြစ်တော်မူကြကုန်သော ကျောင်းထိုင်ဆရာတော် စာချဆရာတော် တိုက်ပိုင်ဆရာတော် တိုက်ကြပ်ဆရာတော် ကမ္မဋ္ဌာန်းသက်သက်ကိုသာ အားထုတ်ကြသော ပဋိပတ္တိကဆရာတော် စသော ၅၀ ခန့် ဝါနှစ်ဆယ်ကျော်ပြီး မဟာထေရ်ကြီးတို့သည် နောက်နှစ်ဝါဦးမှာ ကြွရောက်လာတော်မူကြ၍ ပျော်ရွာတောရကျောင်း ယခု(ညောင်လွန့်တောရကျောင်း)၌ ဝါကပ်တော်မူကြလေသည်။

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၄၇)

ထိုသို့ ညောင်လွန့်ဆရာတော်ဘုရားကြီး တောထွက်တော်မူပြီးနောက် ညောင်လွန့်တောရမှာပင် ဝါကပ်တော်မူကြသည်ဟု သိရပါသည်။

၁၉၀၈ မိုးနံကုန်းဆရာတော်ဘုရားကြီးနှင့် အရှင်မေဓာဝီမထေရ်တို့သည် အေဒီ ၁၉၀၈ မတ်လ (၁၂၆၉ ခုနှစ် တပေါင်းလ)မှာ မိုးနံကုန်းရွာ ကျောင်းမှာ ထွက်တော်မူခဲ့၍ ညောင်လွန့်တောရသို့ရောက်ပြီး ဝါကပ်တော်မူကြသည်။

၁၉၀၉ အေဒီ ၁၉၀၉ (၁၂၇၁ ခုနှစ်) ဝါမှာ အားလုံး တပည့်ကြီးတွေ စုဝေးကြွရောက် ဝါကပ်တော်မူကြကုန်သည်။

(ကျမ်းကိုး၊ ညောင်လွန့်တောရဆရာတော်၏ ထေရုပ္ပတ္တိ အရှင်နာယက၊ စာ ၄၇)

## တစ်နေ့ ဘယ်နနာရီ ကျိန်းစက်သလဲ

ထိုစဉ်အခါက ညောင်လွန့်ဆရာတော်ဘုရားကြီးသည် လောကီ လောကုတ်ဝတ္တရားမပျက်အောင် ဆောင်ရွက်တော်မူခဲ့လေသည်။ မိုးနံကုန်းဆရာတော်ဘုရားကြီးကိုလည်းပြုစုသည်။ ၎င်းနောက် ဝိနည်းငယ်လေးစောင်ပါဠ်ကိုလည်း အာဂုံသရဇ္ဈာယ်သေးသည်။ ၎င်းနောက် ညသန်းခေါင်လောက်ရှိသောအခါ တရားအားထုတ်လိုက်သေးသည်။ ဤသို့ဖြင့် ခေတ္တတစ်နာရီလောက်သာ ကျိန်းစက်ရသည်ဟု ဆိုပါသည်။ မှတ်တမ်းကိုဖတ်ကြည့်ပါ။

ညဉ့် ၁၀ နာရီအထိ ပရိယတ်ကိစ္စကိုပြီးစေ၍ ကျေးဇူးတော်ရှင် မိုးနံကုန်းဆရာတော်ဘုရားကြီးအထံတော်သို့ လျှောက်ထားရန်ရှိက လျှောက်ထားရင်း ဝတ်ဖြေခြင်းငှာ ဆည်းကပ်ခစားတော်မူလေသည်။

## ည ၁၀ နာရီ

ဆရာတော်ဘုရားကြီးအထံတော်၌ ၁ နာရီခန့် ခစားဝတ်ဖြည့်တော်မူပြီးမှ ညဉ့် ၁၀ နာရီ အချိန်တွင် မိမိနေရာသို့ ပြန်ကြွပြီး ဝိနည်းငယ်လေးစောင်ပါဠ် သုတ္တန်အဘိဓမ္မာတို့မှ ဆောင်သင့်ဆောင်ထိုက်သော ပါဠိ အာဂုံတို့ကို ပြန်လှန် သရဇ္ဈာယ်တော်မူပြီးနောက် တစ်ဖန် နေ့ခင်းက မိုးနံကုန်းဆရာတော်ဘုရားကြီး ဆုံးဖြတ်အမိန့်ရှိလိုက်သော အာစရိယဝါဒ ဝိနိစ္ဆယ ခဲရာခဲဆစ်တို့ကို ပြန်လှန်တွေးတောကြံဆ ပရိစယပြုလျက် စာအုပ်မှု၌ မှတ်တန်သည်ကို မှတ်တော်မူသည်။

## ည ၁၂ နာရီ

ညဉ့် ၁၂ နာရီအချိန် ခန့်ရှိမှ တရားကို အားထုတ်ရန်အရှေ့ဘက် ကမ္မဋ္ဌာန်းချောင်သို့ ကြွတော်မူ၍ တရားကို အားထုတ်တော်မူသည်။ ခေတ္တ ၁ နာရီခန့်သာ ကျိန်းစက်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၅)



## ညစဉ် ညစဉ် ဘာလုပ်သလဲ

ငင်းနောက် နံနက်ပိုင်းတွင် မိမိဆရာအား မျက်နှာသစ်ရေ စသည်တို့ ဆက်ကပ်ပြီးနောက် ဆရာထံမှခွာ၍ ဗုဒ္ဓကိစ္စတို့ကိုပြုရပြန်သည်။ ထိုသို့ ဗုဒ္ဓကိစ္စ အာစရိယဝတ်တို့ ပြီးလျှင်ပြီးခြင်း ရဟန်းတရားကို မိုးလင်းအောင် ဆက်၍အားထုတ်ပြန်လေသည်။ ဤကား မှတ်သားဖွယ်ရာ ကျင့်စဉ်တော် ဖြစ်ပေသည်။ အောက်တွင်ကြည့်ပါ။

### နံနက် ၁ နာရီ

ကျိန်းစက်တော်မူပြီး၍ နံနက် ၁ နာရီအချိန်ခန့်သာသာရှိသောအခါ အနောက်ဘက်ရှိ မိမိ နေရာသို့ ပြန်ကြွလာပြီး ဘုရားအားဝတ်ပြု မျက်နှာသစ်တော်ရေကို ကပ်လှူသည်။

### နံနက် ၂ နာရီ

နံနက် ၂ နာရီအချိန်ခန့်၌ မိုးနံကုန်းဆရာတော်ဘုရားကြီး ထံတော်သို့ မျက်နှာသစ်တော်ရေ တံပူ မျက်နှာသုတ်ပဝါတို့ကို သွား၍ ဆည်းကပ်တော်မူပြန်လေသည်။ ဆရာတော်ဘုရားကြီး မျက်နှာတော်သစ်ပြီး၍ ရေခွက် မျက်နှာသုတ် ပဝါတို့ကို ထားမြဲတိုင်း နေရာမှာထားပြီး ဆရာတော်ဘုရားကြီးအား ဝတ်ဖြည့်ခံတော်မူရန် လျှောက်ထားတောင်းပန်၍ ဝတ်ဖြည့်တော်မူလေသည်။ ယင်းသို့ ဗုဒ္ဓကိစ္စ အာစရိယဝတ်ကိစ္စ ပြီးဆုံးသည်။

### နံနက် ၃ နာရီ

နံနက် ၃ နာရီအချိန်သို့ ရောက်သောအခါ တုံးခေါက်တော်မူပြီး မိမိ၏ ရဟန်းတရားကို မိုးလင်းအောင် နှလုံးသွင်း အားထုတ်တော်မူပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၅)

## ဘယ်တရားကို အားထုတ်ပါသလဲ

ငယ်စဉ်အခါက ကောဋ္ဌာသကို နှလုံးသွင်းအားထုတ်ကြောင်း ဝါတော်ကြီးသောအခါ အာနာပါန မူလကမ္မဋ္ဌာန်းသာ အားထုတ်တော်မူကြောင်း လေ့လာတွေ့ရှိရပါသည်။

တရားကိုလည်း ဝါတော်ငယ်ရွယ်စဉ်အချိန်အခါကသာ ကောဋ္ဌာသကို နှလုံးသွင်း အားထုတ်တော်မူ၍ ညောင်လွန့်တောရသို့ရောက်ပြီး ဝါတော်ကြီးရင့်တော်မူသော အချိန်အခါ၌ကား အာနာပါနကိုသာ မူလကမ္မဋ္ဌာန်းပြု၍ အားထုတ်တော်မူလျက် ကောဋ္ဌာသကိုကား ရံဖန်ရံခါမှသာ အရှေ့ချောင် အရိုးဂူသို့ကြွ၍ နှလုံးသွင်း အားထုတ်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၅)

## အားထုတ်ခဲ့သော လိုဏ်ဂူတော် နေရာဟောင်း

ဆရာတော်ကြီး အားထုတ်ခဲ့သော လိုဏ်ဂူတော်မှာ ယခုတိုင် ရှိသေးသည်ဟုသိရပါသည်။

အရှင် မေဓာဝိမထေရ် ကောဋ္ဌာသကို နှလုံးသွင်းအားထုတ်တော်မူရာ အရိုးလိုဏ်ဂူ



သည် ယခုအခါ အရှေ့ချောင် မဟာဗောဓိပင်တော်၏ မြောက်ဘက်အနီးမှာပင် တည်ရှိလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၅)

ဆရာတော်ကြီး၏ အသက်ထက်ဆုံး ကျင့်ဆောင်ခဲ့သော ကျင့်ဝတ်များနှင့် ကျင့်စဉ်များကို လေ့လာတွေ့ရှိရသည်မှာ နောင်လာနောက်သားတို့ အတုယူဖွယ်ဖြစ်ပါသည်။

## ဆရာကို ရိုသေခြင်း

ဤသို့လျှင် အရှင်မေဓာဝိမထေရ်မြတ်သည် ဗုဒ္ဓဝေယျာဝစ္စ အာစရိယဝတ်ကိစ္စတို့ကို မိုးနံကုန်း ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသည်တိုင်အောင်လည်းကောင်း၊ ပျံလွန်တော်မူပြီး အရိုးစေတီတော်ကြီး၌လည်း သက်တော်ထင်ရှားရှိစဉ်ကကဲ့သို့ပင် ညဥ့်၌လည်းကောင်း၊ နံနက် ၂ နာရီအချိန်၌ လည်းကောင်း၊ ကိုယ်တော်တိုင် ပြုစု အားထုတ်တော်မူသည့်အပြင် စေတီတော် ရေ တံပူ မျက်နှာသုတ်ပဝါ မီးတို့ကို အမြဲပင် ဆက်ကပ်လှူဒါန်းတော်မူပြီး စေတီတော်မြတ်ကြီး၏ အရပ်ရှစ်မျက်နှာတို့မှ တည်ခြင်း ငါးပါးဖြင့် အလွန်ရိုသေစွာ ရှိခိုးဦးချကန်တော့ခြင်းတို့ကို အသက်ထက်ဆုံး ပြုစုအား ထုတ် သွားတော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၆)

## မိုးနံကုန်းဆရာတော်ဘုရားကြီး ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီး၏ ဆရာသခင် မိုးနံကုန်းဆရာတော်ဘုရားကြီးမှာ ဝါတော် ၆၅ ဝါ ရသောအခါ ဘဝနတ်ထံ ပျံလွန်တော်မူကြောင်း ၎င်းနောက် ရုက္ခစိုးကြီးဖြစ်နေကြောင်း အံ့ဖွယ် ဖတ်ရှုရပါသည်။

၁၉၀၈ ကျေးဇူးတော်ရှင် မိုးနံကုန်းဆရာတော်ဘုရားကြီးသည် မိုးနံကုန်းရွာကျောင်းမှ အေဒီ ၁၉၀၈ မတ်လ (ကောဇာ သက္ကရာဇ် ၁၂၆၉ ခုနှစ် တပေါင်းလ)တွင် တောထွက် တော်မူခဲ့၍ ညောင်လွန့်တောရ ကျောင်းတိုက်ကြီးတွင်ရောက်၍ တစ်ဝါသီတင်း သုံးတော်မူပြီး ညောင်လွန့်တောရကျောင်းတိုက်ကြီး၌ (၅)ဝါမျှသာ သီတင်းသုံးတော် မူသည်။

၁၉၁၃ အေဒီ ၁၉၁၃ မတ်လ ၁၄ရက်၊ သောကြာနေ့ (ကောဇာသက္ကရာဇ် ၁၂၇၄ ခုနှစ် တပေါင်းလဆန်း (၈)ရက် သောကြာနေ့) နေ့လယ် (၁၂) နာရီ မွန်းတည့်မတ်အချိန်တွင် သက်တော် (၆၅) ဝါရပြီးသောအခါ ဘဝနတ်ထံ ပျံလွန်တော်မူလေသတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၈-၅၉)

အရိုးတော်ဓာတ်တို့ကို တောရတိုက်ကြီး၏ အရှေ့ချောင် ကမ္မဋ္ဌာန်းတိုက်အတွင်း၌ စေတီ တော်ကြီးတည်၍ ဌာပနာ ပူဇော်ထားကြလေကုန်သတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၆၀)

## ရုက္ခစိုးဖြစ်နေသော မိုးနံကုန်းဆရာတော်ဘုရားကြီး

ရုက္ခစိုးကြီးဖြစ်နေသော မိုးနံကုန်းဆရာတော်ဘုရားကြီး၏ အကြောင်းကို ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများသမိုင်းတွင် လေ့လာတွေ့ရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၉၀-၃၉၁)



## သမထတစ်ခုကို ပေါက်ရောက်လေ့လာပြီးက ကြွင်း သမထတို့ကိုလည်း နှလုံးသွင်းကာမျှဖြင့် ဖြစ်ပေါ်နိုင်ပုံကို အမိန့်တော်ရှိခြင်း။

ညောင်လွန့်ဆရာတော်ဘုရားကြီး၏ နည်းကောင်းတစ်ခု ကျင့်စဉ်တစ်ခုကို ကိုယ်တိုင်နားဖြင့် ဆတ်ဆတ်ကြားရသဖြင့် အောက်ပါအတိုင်း မှတ်တမ်းတင်ထားကြောင်းတွေ့ရှိရပါသည်။

> တစ်ရံသောအခါ ကျေးဇူးတော်ရှင် ညောင်လွန့်တောရ ဆရာတော်ဘုရားကြီးသည် အဘိဓမ္မာစာဝါ ပို့ချတော်မူစဉ် စျာန်ခန်းသို့ ရောက်တော်မူသောအခါ အမိန့်ရှိသည်မှာ ငါတို့တော့ သမာဓိအားကောင်းနေပြီဖြစ်၍ ဘယ်ကသိုဏ်း ဘယ်သမထကိုပဲဖြစ်ဖြစ် နှလုံးသွင်းလိုက်ရင် ချက်ချင်းထင်မြင်၍လာသည်သာ၊ အယုတ်ဆုံး သစ်ပင်မှာရှိသော သစ်ရွက်တွေကို စိုက်ကြည့်၍ နှလုံးသွင်းလိုက်လျှင် တစ်ခါတည်းချက်ချင်း နီလကသိုဏ်း ဖြစ်ပေါ်၍ အလိုရှိသလိုပွား၍ ရတော့သည်'ဟူ၍ အမိန့်တော်ရှိသည်ကို ကိုယ်တိုင်နား ဆတ်ဆတ်ကြားလိုက်ရဖူးလေသည်။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ ၇၀-၇၁)

## သမာဓိအား ကောင်းလှသဖြင့် နာနာဘာဝ ဝိနာဘာဝတို့ကို တွေ့မြင်ရကြောင်း

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် သမာဓိမှုကား အလွန်ပင် အားကောင်းလှသဖြင့် ကြည့်ဆင်ခြင်လိုက်မည်ဆိုလျှင် ပကတိမျက်စိဖြင့် မြင်ရသကဲ့သို့ နာနာဘာဝ ဝိနာဘာဝ ဖုတ် ပြိတ္တာ အမျိုးမျိုးတွေကို တွေ့မြင်ရကြောင်း မကြာမကြာ အမိန့်ရှိဖူးလေသည်။ ထိုအချက်နှင့် စပ်လျဉ်း၍ ကိုယ်တွေ့ နာကြားမှတ်တမ်းတစ်ခုကိုဖတ်ရှုရပါသည်။

> တစ်ရံသောအခါ ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီးသည် မိမိဂေါစရဂါမ်ဖြစ်သော ဂျိုကျအင်းပျော်ရွာ ပိတောက်ကုန်းရွာများတွင် ဂျိုကျအင်းရွာမှစ၍ ကွဲအုပ်ကြီးသည် ဝင်လာနေသည်ကို မြင်တော်မူ၍ မိမိ၏တပည့်မထေရ်ကြီးများကို သေချာစွာ အမိန့်ရှိပြီး ရွာဒကာ ဒကာမတို့အားစေလွှတ်၍ ပရိတ်အရံအတားတရားများကို နာယူစေရာ ဂျိုကျအင်းရွာမှာသာ အတန်ငယ်ဝမ်းရောဂါဖြစ်ခံရပြီး ပရိတ်အရံအတား ပြုလုပ်နာယူကြသောကြောင့် အဆိုပါကွဲအုပ်ကြီးသည် အောက်သို့ စုန်ဆင်းထွက်သွားသည်ကို မြင်လိုက်ရပြန်ကြောင်း အမိန့်ရှိလေသည်။ အမိန့်ရှိသည့်အတိုင်းပင် အဆိုပါ ဂျိုကျ အင်းရွာမှာ ဝမ်းရောဂါကင်းပျောက်ပြီး အောက်ဘက်ရွာတွေမှာ ဝမ်းရောဂါ ဖြစ်ကြ ကြောင်းကြားသိရလေသည်။
>
> မိမိ၏ တောရကျောင်းတိုက်မှာလည်း တစ်ခါတစ်ခါ သံဃာတော်တွေ နေမကောင်းထိုင်မသာ ဖြစ်လာချင်ရင် ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီးက အရင်တင်ကြို၍ သိတော်မူသဖြင့် ဦးပဥ္စင်းတို့ တစ်တိုက်လုံးမှာ အသီးအသီးဆိုင်းခွဲ၍ ပရိတ်ကမ္မဝါစာများကို ရွတ်ကြ၊ သီလ၊ မေတ္တာကို ပွားများကြဟု အမိန့်တော်ရှိပြီး၊ ဘာမဟုတ်တဲ့ နွားပြိတ္တာ၊ ဝက်ပြိတ္တာ၊ ကြက်ပြိတ္တာ စသော တန်ခိုးသေးသော ပြိတ္တာကောင်တွေ အုပ်လိုက် အစုလိုက် ကျောင်းပတ်ဝန်းကျင်မှာရောက်နေတယ်၊ သူတို့ဟာ ဖျားအောင်၊ နာအောင်၊ ဒုက္ခဝေဒနာ အမျိုးမျိုးဖြစ်အောင် နှောင့်ယှက်ကြမယ်ဟု အမိန့်တော်ရှိသဖြင့် ပရိတ် ကမ္မဝါစာတွေကို သံဃာတော်များက တစ်တိုက်လုံး မွန်သွားအောင် ရွတ်ကြရာ သီလ မေတ္တာကိုပွားများကြရာ ကင်းပျောက်၍ ဘာမျှ မပြောတော့ဘဲ ကျန်းမာကြလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၆-၇၇)



## ပလိပ်ရောဂါကို ကာကွယ်ခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် မိမိသီတင်းသုံးရာ ကျောင်းတိုက်တွင် အားလုံးကို မေတ္တာပွားစေကြောင်း ပရိတ်တော်များကို ရွတ်ဖတ်စေကြောင်း ဤသို့ဖြင့် ပလိပ်ရောဂါကို တားဆီးခဲ့ကြောင်း ဖတ်ရှုရပါသည်။

> တစ်ရံသောအခါ ဂေါ်စရဂါမ်ရွာ ပတ်ဝန်းကျင်မှာ ပလိပ်ကပ်ရောဂါဖြစ်ပေါ်နေပြီး တောရကျောင်းတိုက်မှာလည်း တောကြွက်၊ ကျောင်းကြွက်တွေ အတောမသတ်အောင် သေ၍ ကျလာကုန်ကြရာ ညောင်လွန့်တောရဆရာတော်ဘုရားကြီးက ဦးပဥ္စင်းတို့ နိုပ်စက်မည့် ဘီလူးတွေ ပြိတ္တာတွေလာကုန်ပြီ သီလကို သုတ်သင်ကြ၊ မေတ္တာကိုများများ ပွားကြ၊ ပရိတ်ကမ္မဝါစာတို့ကို ရွတ်ဖတ် သရဇ္ဈာယ်ကြရမည်ဟု အမိန့်တော်ရှိသဖြင့် တစ်ကျောင်းတိုက်လုံး သီလကို အထူးသုတ်သင်လျက် မေတ္တာကိုလည်း ပွားများကြကာ ပရိတ်ကမ္မဝါစာတွေ ရွတ်ဖတ်၊ မီးတွေ နေရာအနှံ့အပြားရှိ ပြုလုပ်ကြရာ ကြွက်လာရုံမှတစ်ပါး ကျောင်းတိုက်ကြီးတစ်ခုလုံးမှာ ဘာမှ ဥပါဒ်အန္တရာယ် မဖြစ်တော့ဘဲ ပလိပ်ရောဂါ ကင်းရှင်းသွားလေတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၇-၇၈)

## အာဋာနာဋိယ ပရိတ်တော်တန်ခိုး

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် အာဋာနာဋိယ ပရိတ်တော်ကို ပရိတ်ကြီးစာအုပ်အတိုင်း ရွတ်ဖတ်ရာ အောင်မြင်ခဲ့ကြောင်း မှတ်သားရပါသည်။

> တစ်ရံသောအခါ အောက် ညောင်လေးပင်မြို့နယ် ခင်တန်းရွာ သိမ်သမုတ်သို့ ကြွရောက်တော်မူစဉ် အရညကင်တော အရှက်အတွက် လိုက်ပို့ကြသဖြင့် သုသာန်အနီး ကြမ်းတမ်းလှသော နေရာတစ်ခုတွင် တောအရှက်ခံနေတော်မူစဉ် ရှုဆင်ခြင်လျက် ကြည့်တော်မူလိုက်ရာ အနီးပတ်ဝန်းကျင်၌ အမျိုးမျိုးသော နာနာဘာဝ ဘုတ်ပြိတ္တာတွေကို မရေမတွက်နိုင်လောက်အောင် များပြားလှစွာ လာ၍ တချို့က ရှိသေစွာ ရှိခိုးကြသည်။ တချို့ ရှိမခိုးဘဲ ထိုင်ကြည့်နေကြသည်။ တချို့ကလည်း ပြောင်လှောင်၍ မရိုမသေပြုနေကြသည်။ တချို့ကလည်း နောက်ကျောပေးပြီးထိုင်နေကြသည်။ ထိုသို့ အမျိုးမျိုးတွေကို တွေ့မြင်တော်မူရသဖြင့် မေတ္တာသုတ်ကိုရွတ်ရာ ဘာမှအကြောင်းမထူးဘဲရှိသဖြင့် အာဋာနာဋိယ ပရိတ်တော်ကို ပရိတ်ကြီးစာအုပ်ငယ်၌ လာရှိသည်အတိုင်းပင် ရွတ် ိုက်သောအခါကျမှ အလျှိုအလျှိုရှိခိုးအရိုအသေပေးသူတွေပေးကြ၊ ရှိခိုးအရိုအသေ မပေးဘဲ ပြောင်လှောင်သူက ပြောင်လှောင်ကြကာ အားလုံးကုန်ပြုန်၍ ထသွားကြသည်တို့ကို ကိုယ်တော်တိုင် အနီးမှာပင် မြင်တော်မူရကြောင်း မိမိတောရကျောင်းသို့ ရောက်တော်မူသောအခါ အမိန့်ရှိသည်ကို နာခံလိုက်ရဖူးလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၈-၇၉)

## ကျတ်သရဲများ မိမိကျောင်းပေါ်သို့ လာ၍ ရှိခိုးလျှောက်သွားကြခြင်း

ကျေးဇူးတော်ရှင် မိုးနံကုန်းဆရာတော်ဘုရားကြီး ပျံလွန်တော်မူပြီးသည့်နောက် မကြာမီ မိမိ နေတော်မူရင်း ဝတ်ရုံကျောင်းကြီးပေါ်၌ နံနက် (၃) နာရီအချိန် တုံးခေါက်ပြီး၍ တရားကို နှလုံးသွင်း



နေတော်မူစဉ် အပေါ်ထပ် မိမိရှေ့တည့်တည့်မှ လူတစ်ယောက်တက်လာပြီး ရှိခိုးဦးချ၍ လျှောက်ထားခဲ့ကြောင်းကို အောက်ပါအတိုင်းဖတ်ရှုရပါသည်။

> အရှင်ဘုရားတို့ အကြံညဏ်ဦးသဖြင့် အရှင်ဘုရားတို့၏ သီလ မေတ္တာတန်ခိုးကြောင့် တပည့်တော်တို့မှာ အထက်နတ်တို့၏အမိန့်ဖြင့် အရှေ့တောင်ခြေသို့ ပြောင်းရွှေ့သွားရပါတော့မည်၊ အရှင်ဘုရားတို့ ချမ်းချမ်းသာသာ သီတင်းသုံးနေတော် မူရစ်ပေတော့ဘုရားဟု လျှောက်ထား၍ ရှိခိုးဦးချပြီး ကျောင်းပေါ်မှ ဆင်းသွား၍ မကြာမီ ကျောင်းတိုက်ကြီး၏ အနောက်တောင် ရေကန်ကြီး၏ တောင်ဘက်အနီးမှ လူတွေရော လှည်းသံတွေရော ခွေးသံတွေရော ဆူညံစွာပြောင်းရွှေ့ ထွက်သွားကြသည်ကို ကြားသည်ကြား၊ မြင်လည်းမြင်တော်မူလိုက်ရကြောင်း အမိန့်ရှိသည်ကို နာခံလိုက်ရဖူးလေသည်။
>
> (ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၇၉)

## ညဉ့်လုံးပေါက်မအိပ်ဘဲ တရားကို အပြင်းအထန် အားထုတ်ခြင်း။

ကျေးဇူးတော်ရှင် ညောင်လွန့်တောရ ဆရာတော်ဘုရားကြီးသည် ယင်းသို့ ပြဆိုခဲ့သည့်အတိုင်း သမာဓိအားကောင်းလျက် အမြင်လမ်း ပေါက်ရောက်နေငြားသော်လည်း ရဟန်းကိစ္စမပြီးသေးသဖြင့် အားရတင်းတိမ်ခြင်းမရှိဘဲ သမာဓိကို အခြေတည်၍ ဝိပဿနာကို မနေမနား ကြိုးစား အားထုတ်တော်မူရာ သူမတူအောင်ပင် ရှိလေသည်။ ထိုမျှသာမကသေး ဆွမ်းကိုလည်း ရွာစဉ် အမြဲခံတော်မူလေ့ရှိသည်ဟုသိရပါသည်။

> ဝါတော် (၂၀) နှစ်ဆယ်ရ၍ တောသို့ထွက်တော်မူသည့် အချိန်ကစ၍ ညောင်လွန့်တောရသို့ရောက်ပြီး မိုးနံကုန်း ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်ကဂင်း၊ သက်တော်ထင်ရှား မရှိသည့်နောက် တောရကျောင်းတိုက်ကြီးကို အကြီးအကဲနာယကဆရာတော်ပြုလုပ်၍ အုပ်ချုပ်တော်မူရစဉ်လည်းကောင်း၊ သပိတ်တစ်လုံး သက်န်း သုံးထည်သာလျှင် ကိုယ်ပိုင်ထား၍ တိစီဝရိတ် ဓုတင် ပတ္တပိဏ်ဓုတင် ခလုပစ္ဆာရတင် ယထာသန္တဘိဓုတင် အရညကင်ဓုတင်အားဖြင့် ရှစ်ပါးသော ဓုတင်တို့ကိုအမြဲကျင့်ဆောင်တော်မူလျက် ဆွမ်းကိုလည်း ရွာစဉ်အမြဲခံတော်မူလေသည်။ ပရိနိဗ္ဗာန် စံလွန်တော်မူခါနီး ခြောက်နှစ်လောက်ရှိမှသာလျှင် ဇရာဒုဗ္ဗလ ဖြစ်တော်မူ၍ တပည့်သံဃာအပေါင်းတို့က အတန်တန်တောင်းပန်လျှောက်ထားတော် မူအပ်သောကြောင့် ကိုယ်တိုင်တော် ဆွမ်းခံခြင်းကို ရပ်နားတော်မူလေသည်။
>
> (ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၈၀)

## အသက်ကို စွန့်၍ပင် အားထုတ်တော်မူခြင်း

တစ်ရံသောအခါ မိုးနံကုန်းဆရာတော်ဘုရားကြီး၏ အရိုးအိုးစေတီတော်မြတ် အနောက်ဘက်တွင် တောင်ဘက် မြောက်ဘက် ဇရပ်ကြီးနှစ်ဆောင်ရှိရာ မြောက်ဘက်ဇရပ်ကြီးအပေါ်၌ တစ်ပါးတည်း ညဥ့်(၁၀)နာရီအချိန်မှစ၍ မကျိန်းစက်တော့ဘဲ တရားကိုအားထုတ်နေစဉ် ဇရပ်နံရံ၏ အပြင်ဘက်မှ တဝုန်းဝုန်းတက်လိုက် အောက်သို့ခွာချလိုက်နှင့် ဆူညံစွာ အသံပြင်းပေးလျက် နှောင့်ယှက်လာရာ သမာဓိမရတော့ဘဲ ဆင်ခြင်တော်မူစဉ် မြွေစိမ်းကြီးတစ်ကောင်တွေ့ရကြောင်း မှတ်တမ်းတွင် ဖတ်ရှုရပါသည်။



မုချ ငါ၏ တရားအလုပ်ကို နှောင့်ယှက်လာတာပဲ၊ မာရ်နတ်၏ အသင်းအပင်းတွေပဲ။ ကဲ ငါသည် သူ့ကို အာရုံမပြုတော့ဘူး၊ သူတတ်နိုင်ရင် ငါ့ အသက်ကိုပင် သတ်စေ၊ ငါ၏ ရဟန်းတရားကိုကား မစွန့်တော့ပြီ၊ မရမနေ အားထုတ်တော့မည် ဟူ၍ မိမိ၏အသက်ကို စွန့်တော်မူလျက် အဓိဋ္ဌာန်ပြု၍ တရားကိုသာ အာရုံစူးစိုက်လျက် အားထုတ်တော်မူပြန်လေသည်။ ထိုအနှောင့်အယှက်ကား မလျော့ဘဲ နှောင့်ယှက်မြဲ နှောင့်ယှက်လျက်ပင်နေလေသည်။ နံနက် ၃ နာရီအချိန်ခန့် ရှိသောအခါ အလုပ်အကျွေးတပည့်ရဟန်းတစ်ပါးသည် မျက်နှာသစ်ရေ တံပူ မျက်နှာသုတ်ပဝါတို့ကို လာ၍တင်သောအခါမှ ဦးပဥ္စင်း နံရံပြင်ဘက်မှ ဘာရှိတုံး သွားကြည့်စမ်းဟု အကြည့်ခိုင်းရာ အလျား(၇)တောင်ခန့်ရှည်လျားသော မြွေစိမ်းကြီးကို အနီးအပါး၌ တွေ့ရပြီး မကြာမီပင်ပျောက်ကွယ်သွားလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊စာ ၈၂-၈၃)

၁၉၁၃-၁၉၁၉ ဤသို့လျှင် အေဒီ ၁၉၁၃ ခု (၁၂၇၄ ခုနှစ်)မှစ၍ ပြင်းပြင်းထန်ထန် တရားကို အားထုတ်လာရာ အေဒီ ၁၉၁၉ ခု၊ (၁၂၈၀ ပြည့်)အထိ ၇ နှစ်တိုင်တိုင် ရှိသော်လည်း လောကီသမာဓိမျှကိုသာရလျက် ဗဟိဒ္ဓတွေကိုသာ အာရုံပြုလျက် သမာပတ် (၈) ပါးကစားမှု၌ အားသန်၍ ညွတ်နေတော့သဖြင့် မဂ်ဖိုလ်သို့ မပေါက်ရောက်နိုင်ဘဲ နေလေသည်ဟု အံ့ဩဖွယ်ဖတ်ရှုရပါသည်။

၁၉၁၉ အဆိုပါ အေဒီ ၁၉၁၉ ခု (၁၂၈၀ ပြည့်) နှစ်ဝါတွင်း၌လည်း စာဝါပိတ်ပြီး တစ်ဝါတွင်းလုံးတရားကိုသာ အားထုတ်တော်မူလေသည်။ ယင်းသို့ဆက်လက်၍ ပြင်းပြင်းထန်ထန် အားထုတ်မှုကြောင့် သင်္ခါရဖြစ်ပျက်မှုတရားကို တွေ့မြင်တော်မူသဖြင့် ဝိပဿနာ ညစ်ညူးကြောင်း တရားဆယ်ပါးကို လွန်မြောက်တော်မူ၍ ဥဒယဗ္ဗယဉာဏ် အရင့်စားသို့ပင် ရောက်တော်မူလေသည်ဟု သိရပြန်ပါသည်။

၁၉၁၉ အေဒီ ၁၉၁၉ ခု (၁၂၈၀ ပြည့်နှစ်)၌ သင်္ခါတရားကို တွေ့မြင်ရသည့်အချိန်ကစ၍ မနေမနား ကြိုးစားလာရာ တစ်ခါတစ်ရံ စာဝါကို နား၍အပြင်းအထန်ပင် အားထုတ်တော်မူသဖြင့် ခန္ဓာကိုယ်ပိန်ချုံး၍ အရိုးနှင့်အရေပင် ကျန်ရှိကြောင်း ယင်းသို့ဖြစ်သော်လည်း လုံ့လကိုမလျှော့ဘဲ ဆက်လက်အားထုတ်ရာ ဝိပဿနာ ဉာဏ်ထက်သန်လှသောကြောင့် လောကဓာတ်တစ်ရပ်လုံး သဏ္ဌာန်ဆိတ်သုဉ်း၍ ဖြစ်ပျက်တရားမျှသာ တွေ့နေရသဖြင့် တစ်ခါတစ်ခါလမ်းသွား၍ပင်မဖြစ်ဘဲ မနည်းသတိထား၍ သွားတော်မူရကြောင်းကို အမိန့်ရှိတော်မူ၍သိရပါသည်။

၁၉၂၀ ဤသို့တစ်ဆင့်တစ်ဆင့် တက်၍ အားထုတ်တော်မူလာရာ အေဒီ ၁၉၂၀ ခု (၁၂၈၂ ခုနှစ်) နှစ်ဦးသို့ တိုင်အောင် ဝိပဿနာဉာဏ်သည်အလွန်ပင် အမြင်သန်လျက် သန့်ရှင်းစင်ကြယ်၍ထက်မြက်လာလေတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈၃-၈၄)

## ပဌမ မဂ်နှင့် ဖိုလ်

၁၉၂၀ ကျေးဇူးတော်ရှင် ညောင်လွန့်တောရဆရာတော်ဘုရားကြီးသည် အောက်က ပြဆိုခဲ့သည့်အတိုင်း မနေမနား ရဟန်းတရားကို အားထုတ်လာရာ အေဒီ ၁၉၂၀ ခု၊ မေလ ၂၇ ရက်၊ ကြာသပတေးနေ့ (၁၂၈၂ ခုနှစ် နယုန်လဆန်း ၁၁ ရက်) နံနက် ၃



နာရီအချိန် ညောင်လွန့်တောရတိုက်ရှိ ဝတ်ရုံကျောင်းကြီးပေါ် အမြဲထိုင်သော ကြိမ်ကုလားထိုင်ကြီးပေါ်၌ သင်္ခါရတို့၏ဆိတ်သုဉ်းရာ သန္တိသုခ နိဗ္ဗာနဓာတ်ကို အာရုံပြုလျက် ပဌမ မဂ်နှင့်ဖိုလ်ကို ရတော်မူလေသည်။

## ဒုတိယ မဂ်နှင့် ဖိုလ်

၁၉၂၀ ထို့နောက် တစ်ဖန် မနေမနား ကြိုးစား၍ အားထုတ်တော်မူပြန်ရာ ပဌမမဂ်နှင့် ဖိုလ်ကို ရတော်မူပြီးနောက် ခုနစ်ရက်မြောက်သောနေ့ အေဒီ ၁၉၂၀ ခု၊ ဇွန်လ ၃ ရက်၊ ကြာသပတေးနေ့ ၊ ၁၂၈၂ ခုနှစ် (နယုန်လဆုတ် ၃ ရက်နေ့) ညဥ့် ၁၀ နာရီ တုံးခေါက်ပြီး ဝတ်ရုံကျောင်းကြီးပေါ် စာချသော မြောက်ဘက်ခန်းထဲတွင် ၁၁ နာရီ အချိန်ခန့်တွင် ဒုတိယမဂ်နှင့်ဖိုလ်ကို ရတော်မူလေသည်။

## တတိယ မဂ်နှင့် ဖိုလ်

၁၉၂၀ ဒုတိယမဂ်နှင့် ဖိုလ်ကို ရတော်မူပြီး တစ်ဖန်အားထုတ်တော်မူပြန်ရာ အရှေ့ဘက် ကမ္မဋ္ဌာန်းချောင်၊ ယခုရုပ်ပွားတော်ကြီး၏ အရှေ့ဘက် ရုံပိုင်ကြီးဆောက်လုပ်လှူဒါန်းသော ဖန်ခါးပင်ကျောင်းပေါ်၌ လဆုတ် ၄ ရက်နေ့ ညဥ့် ၁၁ နာရီ တုံးခေါက်ပြီးသည့် အချိန်ကစ၍မထဘဲ အပြင်းအထန်အားထုတ်တော်မူ၍ အေဒီ ၁၉၂၀ ခု၊ ဇွန်လ ၄ ရက်၊ သောကြာနေ့၊ ၁၂၈၂ ခုနှစ်၊ နယုန်လဆုတ် ၄ ရက်နေ့ နံနက် အရုဏ်တက်ခါနီး အချိန်တွင် တတိယမဂ်နှင့်ဖိုလ်ကို ရတော်မူလေသည်။

## စတုတ္ထ မဂ်နှင့် ဖိုလ်

၁၉၂၀ တတိယမဂ်နှင့်ဖိုလ်ကိုရတော်မူပြီးသည်နောက် တစ်ဖန် မနေမနားပင် အပြင်းအထန် အားထုတ်တော်မူရာ အေဒီ ၁၉၂၀ ဇွန်လ ၇ ရက်၊ တနင်္လာနေ့ ၊ ၁၂၈၂ ခုနှစ်၊ နယုန်လဆုတ် ၇ ရက်နေ့ နံနက် ၃ နာရီ တုံးခေါက်၍ စေတီတော်မြတ်ကြီးအား မျက်နှာသစ်တော်ရေနှင့်မီးကို ဆက်ကပ်လှူဒါန်းပြီး ထိုစေတီတော်မြတ်ကြီး၏ အာရုံခံ တန်ဆောင်းအုတ်နံရံကိုမှီ၍ မြောက်ဘက်သို့ လှည့်လျက်ထိုင်၍ တရားကို အားထုတ်တော်မူစဉ် နံနက် ၄ နာရီ အရုဏ်တက်အချိန်တွင် စတုတ္ထ မဂ်နှင့်ဖိုလ်ကို မျက်မှောက်ပြုတော်မူ၍ ရဟန်းကိစ္စပြီးဆုံးတော်မူလေသည်။

(ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၈၄-၈၅-၈၆)

## အရိမေတ္တေယျလက်ထက်အထိ စောင့်နေတော်မူမည့် မိုးနံကုန်းဆရာတော်ဘုရားကြီး ရုက္ခစိုးနတ်ဖြစ်နေပုံကို မြင်တော်မူခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီး၏ မိန့်တော်မူချက်အရ သိရှိရသည်မှာ မိုးနံကုန်း ဆရာတော်ဘုရားကြီးသည် သက်တော်ရှည်ရုက္ခစိုးကြီးဖြစ်နေကြောင်း၊ အရိမေတ္တေယျဘုရားသခင် ပွင့်တော်မူသည့်အထိ အသက်ရှည်မည်ဖြစ်ကြောင်း လပြည့်နေ့ ဥပုသ်နေ့များတွင် ပဋ္ဌာန်း ရွတ်ဆိုသံများ ကြားသိရကြောင်း အံ့ဩဖွယ်လေ့လာတွေ့ရှိရပါသည်။ ဖတ်ကြည့်ပါ။

မိုးနံကုန်း ဆရာတော်ဘုရားကြီးကိုလည်း အရှေ့ဘက် ကမ္မဋ္ဌာန်းချောင်မှာ အရိမေတ္တေယျဘုရားသခင် ပွင့်တော်မူသည့်တိုင်အောင် အသက်ရှည်လတ္တံ့သော



ရုက္ခစိုးနတ်ကြီးဖြစ်၍နေသည်ကို တွေ့မြင်ရကြောင်း၊ တစ်ခါတစ်ခါ၌ အရှေ့ဘက် ကမ္ဘဋ္ဌာန်းချောင် တောအတွင်းမှာ လပြည့်ဥပုသ်နေ့များ၌ ရုက္ခစိုးဖြစ်နေသော မိုးနံကုန်း ဆရာတော်ဘုရားကြီးသည် ပဋ္ဌာန်းပရိဝါရ ပါဠိတော်ကို စာစာ စာစာနှင့် ရွတ်ဆိုသရဇ္ဈာယ်သံကိုပင် ကြားတော်မူရကြောင်း အမိန့်ရှိသည်ကို နာခံရဖူးလေသည်။

ကျေးဇူးတော်ရှင် ညောင်လွန့်တောရဆရာတော်ဘုရား ပရိနိဗ္ဗာန် စံလွန်တော်မူပြီးသည့်နောက်၌လည်း အချို့သော ကမ္ဘဋ္ဌာန်းဘုန်းကြီးများသည် တရားကို နှလုံးသွင်းနေစဉ် လပြည့်နေ့ ဥပုသ်နေ့များ၌ပင် ပဋ္ဌာန်းပဋ္ဌာဝါရပါဠိတော် ရွတ်ဆိုသဇ္ဈာယ်သံကို အဆိုပါအရှေ့ဘက် ကမ္ဘဋ္ဌာန်းချောင်တောအတွင်း၌ ကြားရလေသည်။ အချိန်မှာ သန်းခေါင်ယံ အချိန်၌သော်လည်းကောင်း၊ နံနက်လင်းအားကြီးအချိန်၌သော်လည်းကောင်း၊ ကြားရလေသည်။ အသံရှိရာသွားမည်ဟု နေရာမှထ၍ သွားပါလျှင် တဖြည်းဖြည်းဝေး၍ သွားလေတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၉၀)

**ညောင်လွန့်ဆရာတော်ဘုရား၏ ထေရုပ္ပတ္တိကို ဦးစီး၍ရေးသားသော ဒုတိယ ညောင်လွန့်တောရဆရာတော်သည်လည်း အဆိုပါ အရှေ့ဘက် ကမ္ဘဋ္ဌာန်းချောင် အရိုးအိုး စေတီတော်ကြီး၏ အရှေ့ဘက်တောအတွင်းမှာသွားစဉ် မိုးနံကုန်းဆရာတော်ဘုရားကြီးကို သင်္ကန်းဝတ်နှင့်တွေ့မြင်ရ၍ မီအောင်လိုက်ရာ ဝါးတစ်ရိုက်အနီး တောအတွင်းမှာပင် ပျောက်ကွယ်၍ သွားလေတော့သည်ဟု မှတ်တမ်းတင်ထားသည်ကိုလည်း ဖတ်ရှုရပါသည်။**

## ခြေထောက်ကို ဆွဲခြင်း

ကမ္ဘဋ္ဌာန်းဘုန်းကြီးတစ်ပါးသည်လည်း အဆိုပါ အရိုးအိုးစေတီတော်ကြီးအနီး အရှေ့ဘက် ကမ္ဘဋ္ဌာန်းကျောင်းငယ် အရိုးအိုးစေတီတော်ရှိရာဘက်၌ ခြေထားလျက် အိပ်မိရာ ခြေထောက်ကိုဆွဲ၍ စေတီတော်အခြားဘက်သို့ လှည့်ထားဖူးလေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၉၀)

## ညောင်လွန့်တောရကို စောင့်ရှောက်ခြင်း

အဆိုပါ ရုက္ခစိုးဖြစ်၍နေသော မိုးနံကုန်းဆရာတော်ဘုရားကြီးသည် အရှေ့ဘက် ကမ္ဘဋ္ဌာန်းချောင်နှင့်တကွ ကျောင်းတိုက်ကြီးတစ်ခုလုံးကို အထူးစောင့်ရှောက်နေတော်မူကြောင်း၊ တရားကို အားထုတ်ကြသော လူ ရှင် ရဟန်း မည်သည့်ပုဂ္ဂိုလ်ကိုမဆို တစ်စုံတရာထိတ်လန့်အောင် အန္တရာယ်မဖြစ်စေရဘဲ အားပေးစောင့်ရှောက်ကြောင်း တကယ်အဟုတ် တရားကိုလိုလား၍ အားထုတ်နေသော ပုဂ္ဂိုလ်များကို မည်သည့်အနှောင့်အယှက်မှ မဖြစ်ပေါ်စေရအောင် စောင့်ရှောက်ကြောင်း၊ ယုတ်ယုတ်မာမာနှင့် တိုက်တာ၏အန္တရာယ် သံဃာတော်တို့၏အန္တရာယ်ကိုဖြစ်စေအောင် ကျူးလွန်ပြုလုပ်သူ တို့ကိုကား တိုက်တွင်းမှာ မနေနိုင်အောင် ပျက်စီးထွက်သွားအောင်ပြုလုပ်တတ်ကြောင်း၊ တိုက်တာမှာ တစ်စုံတရာဘေးရန်အန္တရာယ်ဖြစ်မည်ဆိုလျှင် တိုက်၏အကြီးအကဲ ပုဂ္ဂိုလ်များကို ထင်ရှားသိသာအောင် သတိပေးအရိပ်တစ်ခုကိုပြကြောင်း၊ အရိုးအိုးစေတီတော်ကြီး၏အနီး သစ်ပင်တစ်ခုမှာ အမြဲနေ၍ အရှေ့ဘက် ကမ္ဘဋ္ဌာန်းချောင် တောအတွင်းမှာ လှည့်လည်လျက် စောင့်ရှောက်နေတော်မူကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊စာ ၉၀)



## ပထမတိုက်ကြပ်ဆရာတော် ခေတ္တ ဝေမာနိက ပြိတ္တာဖြစ်၍ မကြာမီပင် အထက်နတ်ပြည်၌ဖြစ်သည်ကို မြင်တော်မူခြင်း။

ညောင်လွန့်တောရကျောင်းတိုက်ကြီး၏ ပထမတိုက်ကြပ် ဆရာတော်ဦးနန္ဒိယသည် ပျံလွန်တော်မူရာ မိမိ၏အတ္တဘောကိုတွယ်တာလျက် စုတိသွားသောကြောင့် သီလ အလွန်ပင် စင်ကြယ်လှသော်လည်း ဝေမာနိက ပြိတ္တာဘဝသို့ရောက်နေကြောင်းသိရပါသည်။

အဝတ်အစားကောင်းစွာမဝတ်ရ မစားရ၍ ပိန်ချုံး ညှိုးနွမ်းလျက်ရှိကြောင်း၊ မိမိသီတင်းသုံးနေတော်မူသော ဝတ်ရုံကျောင်းကြီး၏ ဖိနပ်ချွတ်တံခါးဝမှလာ၍ ထိုင်နေသည်ကို မြင်တော်မူရကြောင်း၊ ထိုကြောင့် ညောင်လွန့်တောရ ဆရာတော် ဘုရားကြီးသည် တပည့်တပန်း ဒကာ ဒကာမတို့ကို ဆွမ်း သင်္ကန်း စသည်ကို သံဃာ တော်တို့အား လှူဒါန်း ဆွမ်းသွတ်၍ အမျှအတန်း ပေးဝေစေတော်မူလေသည်ဟု သိရပါသည်။ ၎င်းနောက် အထက်နတ်ပြည်သို့ ရောက်သွားကြောင်း အောက်ပါမှတ် တမ်းအရသိရပါသည်။

ယင်းသို့ ဆွမ်းသွတ်ပြီးသော ညဉ့်၌ပင် အဆိုပါ ပထမ တိုက်ကြပ် ဆရာတော် သည် နတ်ဝတ်တန်ဆာ ဒွါဒရာတို့ဖြင့် ဝတ်ဆင်လျက် တပြောင်ပြောင် ကိုယ်ရောင် ကိုယ်ဝါတောက်ပကာ ဝဖြိုးလှပစွာနှင့် လာရောက်၍ရှိခိုးပြီး တပည့်တော် အထက်နတ် ပြည်သို့ တက်ရတော့မည်ဘုရားဟု လျှောက်ထား၍ ပြန်သွားကြောင်း မကြာမီပင် အထက်နတ်ပြည်၌ ဖြစ်၍သွားကြောင်းကို အမိန့်တော်ရှိ၍ သိရလေသည်။

ညောင်လွန့် ဆရာတော်ဘုရားကြီးသည် ထိုသို့ထင်မြင်သိရှိပုံတို့ကို လျှို့ဝှက်ထားကြောင်း သို့သော် ဖွင့်ပြောသင့်၍ ဖွင့်ပြောထိုက်သူကို ဖွင့်ပြောကြောင်းသိရှိရပါသည်။

## လျှို့ဝှက်တော်မူခြင်း

ကျေးဇူးတော်ရှင် ညောင်လွန့်တောရ ဆရာတော်ဘုရားကြီး၏ ဤသို့ ထင်မြင်သိရှိပုံကို အလွန်တရာ လျှို့ဝှက်တော်မူလေသည်။ အခြားရဟန်းသံဃာ လူ ဒကာ ဒကာမများကို လုံးဝအသိမပေး အမိန့်မရှိချေ။ သိက္ခာ သီလကို လိုလား၍ ပဋိပတ်ထက်သန်စွာ အားထုတ်လျက် တည်ကြည်သော သမာဓိရှိ သော တပည့်များကိုသာ စပ်မိသောအခါ တရားဟောသောအခါတို့၌ အမိန့်ရှိတော်မူလေသည်။

(ကျမ်းကိုး။ ယင်းကျမ်း၊စာ ၉၂-၉၃)

## တရားထူးရကြောင်းဝန်ခံ၍ တရားဟောတော်မူခြင်း

ကျေးဇူးတော်ရှင် ညောင်လွန့်တောရဆရာတော်ဘုရားကြီးသည် အာသဝေါကုန်ခမ်း ရဟန္တာ အဖြစ်သို့ ရောက်တော်မူပြီးသည့်နောက်တစ်နေ့တွင် တပည့်ကြီးများ ဖြစ်တော်မူကြသော ပဌမတိုက်ကြပ် ဆရာတော်ဦးနန္ဒိယ စသော မထေရ်ကြီးများနှင့် ကမ္မဋ္ဌာန်းဘုန်းကြီးအားလုံးတို့ကို ခေါ်တော်မူ၍ အမိန့် ရှိသည်မှာ လွန်စွာ အံ့သြကြည်ညိုဖွယ်ဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

ဘုန်းကြီးတို့ ဦးပဥ္စင်းတို့ ရဟန်းတရားဆိုတာ မနေမနား အသက်ကိုပင်စွန့်၍ တကယ် တန်း မှန်ကန်စွာ အားထုတ်ကြပါရင် မုချရနိုင်ပါသည်။ ဘုန်းကြီးတို့ ဦးပဥ္စင်းတို့လဲ



တကယ် ယုံယုံကြည်ကြည်နဲ့ မဆုတ်မနစ် အားထုတ်ကြည့်ကြစမ်းပါ မုချရပါလိမ့်မည်၊ တပည့်တော်သည် နှစ်ပရိစ္ဆေဒအစွန့်ရှည်စွာ ငြိုငြိုငြင်ငြင် ပင်ပင်ပန်းပန်း အားထုတ်လာရာ ယခုမှ တကယ်ရနိုင်ကြောင်းကို ယုံကြည်စွာ သိရပါသည်။ ယခု ဤသို့ ဘုန်းကြီးတို့ ဦးပဥ္စင်းတို့အား ဖွင့်ဟပြောရခြင်းမှာ မဆုတ်မနစ် ကြိုးစား၍ ယုံကြည်စွာ အားထုတ်ကြအောင်လို့သာ ပြောရသည်ဟု အမိန့်တော်ရှိ၍ဝန်ခံလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၉၅)

## ညောင်လွန့်တောရဆရာတော်ဘုရားကြီး တရားထူးရပုံ အလုံးစုံကို ထန်းတပင် တောရကျောင်းတော်က မှတ်တမ်း ရေးထားတော်မူခြင်း

ပျော်ဘွယ်မြို့နယ် ရှင်းရွာဘူတာအရှေ့ လင့်စင်ကုန်း ဆရာတော်ဘုရားကြီး၏ တပည့်ရင်း ဖြစ်တော်မူသော ထန်းတစ်ပင်တောရနေ ဆရာတော်ဦးစန္ဒနမထေရ်သည် သူတစ်ထူးတို့က အချို့ မယုံကြည် အချို့ယုံကြည်ပြောဆိုသံကိုကြားရသောအခါ ကျေးဇူးတော်ရှင် ညောင်လွန့်တောရ ဆရာတော် ဘုရားထံသို့သွား၍ အကြောင်းစုံကိုလျှောက်ထားပြီး ဆရာတော်ဘုရား တရားထူးကို ရပုံရသော ခုနှစ် လ ရက် အချိန်နာရီများနှင့် နေရာဌာနတို့ကို စုံလင်စွာ တပည့်တော်များယုံကြည်ကြောင်း တစ်ပါးတည်း လျှောက်ထားခဲ့သည်ဟုသိရှိရပါသည်။ ထိုအခါ အထက်က ဖော်ပြခဲ့သော မဂ်ဖိုလ်ရပုံ အဆင့်ဆင့်တို့ကို မိန့်တော်မူသည်ဟု သိရပါသည်။

> အောက်ကဖော်ပြခဲ့သော ခု နှစ် လ ရက် အချိန်နာရီ နေရာဌာနများနှင့်တကွ တရားထူးရပုံ အလုံးစုံတို့ကို စုံလင်စွာပင် အမိန့်တော်ရှိတော်မူလိုက်သည်ကို ထန်းတစ်ပင်တောရဆရာတော်ဘုရားကြီး ဦးစန္ဒနကိုယ်တော်တိုင် မှတ်တမ်း နှင့်တကွ ဖော်ပြ အမိန့်ရှိတော်မူပြီး ထိုမှတ်တမ်းကိုပါ မိမိတို့ ယောဂီအဖွဲ့ မထေရ်များအား ပေးတော်မူလိုက်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊စာ ၉၆-၉၇)

## ရဟန္တာဖြစ်သွားလေပြီဟူသော သတင်း

၁၉၂၀ ဤသို့ဖြင့် တစ်နိုင်ငံလုံးတွင် ထိုစဉ်ကာလ အေဒီ ၁၉၂၀ (၁၂၈၂ ခုနှစ်)ကစ၍ တစ်စတစ်စ ညောင်လွန့်တောရဆရာတော်သည် ရဟန်းကိစ္စပြီးသွားပြီ၊ ရဟန္တာဖြစ်သွားပြီဟူသောသတင်းသည် ဟိုးလေးတကျော်ဖြစ်လျက် ရဟန်းမှန်သရွေ့ ထင်ရှားသော၊ လူကြီးလူကောင်းမှန်သရွေ့တို့၏နားမှာ ဂယက်ရိုက်သွား၍သွားလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၉၈)

## မယုံကြည်သောအချို့ ဆရာတော်များဆန္ဒအလျှောက်ထားကြရာ အမိန့်ရှိတော်မူပုံ

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် တရားထူးရတော်မူကြောင်းကို ဇဝေဇဝါ ရှိသူတို့က အသေအချာသိလိုသဖြင့် လျှောက်ထားကြသောအခါ အလွန်ကြည်ညိုဖွယ်ရာဖြစ်သော အောက်ပါ မှတ်တမ်းကြီး ပေါ်ထွက်လာပါသည်။

> တစ်ရံသောအခါ ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး တရားထူးကို ရတော်မူပြီး တပည့်မထေရ်ကြီးများကိုခေါ်၍ တရားဟောဝန်ခံပုံတို့ကို ကြားသိတော်မူကြကုန်သော မိုးနံကုန်းဆရာတော်ဘုရားကြီး၏ တပည့်ကြီးဖြစ်တော်မူကုန်သော အချို့သော ဆရာ



တူတပည့်မထေရ်ကြီးတို့သည် မိမိတို့ မယုံကြည်ချက် ထင်မြင်ယူဆချက် အမျိုးမျိုးတို့ကို ပြောဆိုနေကြစဉ်ကာလအတွင်း ယခုအခါ ငွေတောင်တောရ ပထမဆရာတော်ကြီး ဦးကဝိန္ဒသည် ညောင်လွန့်တောရတိုက် ကမ္မဋ္ဌာန်းချောင် ရုံပိုင်ကြီးကျောင်းမှာ သီတင်းသုံးနေထိုင်တော်မူစဉ် ညောင်လေးပင်မြို့ ကောက်ကွေ့ ဝေဇယန္တာ ဆရာတော်ဘုရားကြီး၊ ရွှေဘိုမြို့ ချောင်းဦး အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တောရ ချောင်းဦး ဆရာတော် ဦးဒီပ လယ်ဝေးမြို့၊ မြွေရိုကြီး ပထမပတ္တဂိုဏ်း ဆရာတော်ဘုရားကြီး ဦးအာစာရ ပျော်ဘွယ်မြို့၊ ဇီးတောရွာမင်းလှ သာစည်ဂိုဏ်းချုပ် ဆရာတော်ကြီး ဦးစန္ဒန စသော အရှင်မြတ်ကြီးတို့သည် ညောင်လွန့်တောရကျောင်းတိုက်ကြီးသို့ ခေတ္တကြွလာတော်မူကြစဉ် အဆိုပါဆရာတော် ညောင်လွန့်တောရဆရာတော် ရဟန်းကိစ္စပြီးမပြီးပြောဆိုတော်မူကြရာ ကောက်ကွေ့ ဝေဇယန္တာ ဆရာတော်ဘုရားကြီးနှင့် လယ်ဝေးဆရာတော်ဘုရားကြီး ဦးအာစာရ အရှင်မြတ်ကြီးတို့က ကိုင်း ဒါဖြင့် ထန်းတပင်တောရဆရာတော်ဦးစန္ဒန ကိုယ်တော်က တိုက်အုပ်ဆရာတော်ကို လျှောက်ထားဝံ့ပါတယ် သို့အတွက် ကိုယ်တော်သွားပြီး တိုက်အုပ်ဆရာတော်အား ကောက်ကွေ့ ဆရာတော် ချောင်းဦးဆရာတော် လယ်ဝေးဆရာတော်၊ ဆရာတော် ဦးကဝိန္ဒတို့က အရှင်ဘုရား တရားထူးရတယ်ဆိုတာကို မယုံကြည်ကြပါ၍ ယုံကြည်ကြပါရန် အသေအချာခိုင်မာအောင် အမိန့်ရှိပါမည့်အကြောင်းကို လျှောက်ထားချေ။ ပြီးတော့ သူအမိန့်ရှိပြောဆိုသရွေ့ အကုန်မှတ်ခဲ့ရမည်ဟူ၍ အမိန့်တော်ရှိကြလျက် ထန်းတစ်ပင်တောရ ဆရာတော် ဦးစန္ဒနကို အလျှောက်ထားခိုင်းလေသည်။

ထန်းတစ်ပင် တောရဆရာတော် ဦးစန္ဒနသည် တိုက်အုပ် ဆရာတော်ဘုရားထံတော်သို့သွား၍ ဆရာတော်ကြီးများ အမိန့်ရှိသည့်အတိုင်း လျှောက်ထားရာ ညောင်လွန့်တောရတိုက်အုပ် ဆရာတော်ဘုရားက ဤသို့အမိန့်ရှိလေသည်။

ဦးစန္ဒန ကောက်ကွေ့ဆရာတော် ချောင်းဦးဆရာတော် လယ်ဝေးဆရာတော် ဦးကဝိန္ဒတို့ ယုံကြည်အောင် ငါတို့ပြောတာမဟုတ်၊ ဦးပဥ္စင်းတို့ တရားအားထုတ်စေလို၍သာ ငါတို့ပြောတာ၊ ကောက်ကွေ့ဆရာတော် ချောင်းဦးဆရာတော် လယ်ဝေး ဆရာတော် ဦးကဝိန္ဒတို့က တရားကိုအားထုတ်သော ပုဂ္ဂိုလ်တွေမဟုတ်ပါဘူး၊ သူတို့ ချမ်းချမ်းသာသာနေဖို့သာ အားထုတ်ကြပါဟုအမိန့်ရှိပြီး၊ တစ်ဖန် အမိန့်ရှိသည်မှာ တို့ဟာ ကိုယ့်ကိုယ်ကိုယ် ဖိုးသူတော်ဖြစ်အောင် ဝါကြွားပလွှားပြောမဲ့အစားလား ဆိုတာသိကြရမယ်၊ တို့ဟာ စာပေကျမ်းဂန်တွေ လေ့ကျက်ပို့ချနေတာ၊ အဓိမာနလား အဟုတ်လား ဆိုတာ ဘာမသိဘဲနေပါ့မလား၊ တရားဆိုတာ မျက်မှောက်ရရှိသော ပုဂ္ဂိုလ်မှာ မိုးကြိုးပစ်သည်ထက် ထင်ရှားပါတယ်'ဟူ၍ အမိန့်ရှိလိုက်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၀၁-၁၀၂-၁၀၃)

## ရဟန်းယောဂီ ၂၀ ကျော်မျှ တရားထူးကို ရရှိခြင်း

**ညောင်လွန့်ဆရာတော်ဘုရားသည် တရားထူးရပြီးနောက် ညောင်လွန့်တောရတွင် တရားထူးရရန် ရည်စိတ်သန်၍ အားထုတ်သူများ လွန်စွာများပြားလာကြောင်း၊ ၎င်းတို့အနက် ရဟန်းယောဂီ နှစ်ဆယ်ကျော်မျှ တရားထူးရရှိကြကြောင်းသိရှိရပါသည်။**

၁၉၂၀ ဆရာတော်ဘုရား တရားထူးကို ရတော်မူသော အေဒီ ၁၉၂၀ (၁၂၈၂ ခုနှစ်)မှစ၍



ပရိယတ်ကို အနည်းကျဉ်းသာ အားထုတ်ကြပြီး ပဋိပတ်ကိုသာ အများအပြား အားထုတ်ကြကုန်သည်။

၁၉၂၁ အေဒီ ၁၉၂၁ (၁၂၈၃ ခုနှစ်)မှာ ညောင်လွန့်တောရ ဆရာတော်ဘုရားသည် မိမိ တရားထူးကို ခံစားရရှိတော်မူသလို တပည့်ပရိသတ်များကိုလည်း အားလုံး အများ အပြားပင် ရရှိခံစားစေလိုသော အာသာတော်ဆန္ဒ ပြင်းပြတော်မူလှ၍ ဝါဆိုဦးတွင် မိမိ၏ တိုက်တွင်းသံဃာတော် ပရိယတ်တို့ကို အားလုံးခေါ်တော်မူ၍ အမိန့်ရှိသည်မှာ ဘုန်းကြီးတို့ ဦးပဥ္စင်းတို့ တရားတော်၏ အရသာဆိုတာ အလွန်တရာမွန်မြတ်တယ်၊ ပစ္စုပ္ပန် သံသရာ ချမ်းသာ နှစ်ပါးလုံးတို့ထက် သာလွန်တယ်၊ ကိုယ်တော်တို့ တပည့် တော်တို့မှာ ဒိဋ္ဌိမကွာသေးလျှင် ဆိုအပ်ခဲ့သော ချမ်းသာနှစ်ပါးဝေးရာ အမြီးကလေး တွေ အမောက်ကလေးတွေ ချိုကလေးတွေနဲ့ စသော အပါယ်ဘဝတို့မှ မလွတ်ကြရ သေးဘူး၊ ထိုအပါယ်ဘဝတို့သို့သာ ရှေးရှုနေကြတယ်၊ သွားဖို့ရာပြင်နေကြတယ်၊ သို့အတွက် ငါ ငါ့ကိုယ်ဟုထင်နေသော ဒိဋ္ဌိကွာအောင် မနေမနား သံတုံးကြီးကို အပ်ဖြစ်အောင်သွေးသော ယောကျ်ားကဲ့သို့ ကြိုးစားအားထုတ်ကြရမည်။ ယခု နှစ်ဦးကစ၍ တစ်တိုက်လုံး ကမ္မဋ္ဌာန်းကိုပဲ အားထုတ်ကြရမည်၊ အားမထုတ်လိုသော ပုဂ္ဂိုလ်များ စာသင်လိုသော ပုဂ္ဂိုလ်များသည် အခြားနေရာ စာသင်ရသော နေရာတို့သို့ ရွှေ့ပြောင်းနိုင်ကြသည်။ ငါတို့တော့ ယခုဝါတွင်းမှာ စာဝါလုံးလုံး မပို့ချနိုင်ဘူး စသည်ဖြင့်ဟောပြော၍ တစ်တိုက်လုံး အားလုံးကုန် ကမ္မဋ္ဌာန်းသက်သက်ကိုသာ အားထုတ်ကြရန် တိုက်တွန်းတော်မူလေသည်။

၁၉၂၁ **အဆိုပါ အေဒီ ၁၉၂၁ (၁၂၈၃ ခုနှစ်)တွင် ဝါဦးကစ၍ တစ်တိုက်လုံး ပဋိပတ် ကမ္မဋ္ဌာန်းကိုသာ အားထုတ်တော်မူကြရာ ရဟန်းတော်ပေါင်း (၂၀) ကျော်မျှ တရားထူးကို ရတော်မူကြလေကုန်သည်။**

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၁၄-၁၁၅)

ညောင်လွန့်ဆရာတော်ဘုရားကြီး ရဟန်းကိစ္စပြီး၍ ရဟန္တာဖြစ်ပြီဟူသော သတင်းကို ကြားရ သောအခါ ရွှေရေဆောင် ဆရာတော်ဘုရားကြီးဟူသော နိုင်ငံကျော် မန္တလေးက ဆရာတော်ဘုရားကြီး၏ မိန့်တော်မူပုံကို ကိုယ်တိုင် နာခံမှတ်သားရသဖြင့် အောက်ပါအတိုင်း မှတ်တမ်းတင်ထားကြောင်း ဖတ်ရှု ရပါသည်။

မန္တလေးမြို့ နိုင်ငံကျော် ရွှေရေဆောင်ဆရာတော်ဘုရားကြီးသည် ထိုစဉ်က ညောင်လွန့်တောရဆရာတော် ရဟန်းကိစ္စပြီး၍ ရဟန္တာဖြစ်ပြီတဲ့ဟူသော သတင်းကို ကြားရတော်မူသော စာဝါကလည်း တတိယ ပါရာဇိကသိက္ခာပုဒ် အဖွင့်အာနာပါန ကမ္မဋ္ဌာန်းအခန်းဖြစ်၍ အမိန့်တော်ရှိသည်မှာ ညောင်လွန့်တောရ ဆရာတော် ဦးမေဓာဝီရဟန်းကိစ္စပြီး၍ ရဟန္တာဖြစ်ပြီလို့ကြားရတယ်။ ကောန် ဒိဋ္ဌရဟန္တာဖြစ်တာ ဟုတ်မှာပဲ။

အကျင့်အနေအထိုင်ကလည်းအလွန်ကောင်းတယ်၊ ပဋိပတ်အားထုတ်မှုက လည်း အလွန်ပဲသန်တယ်၊ ရဟန္တာဖြစ်နိုင်သော ခေတ်အတွင်းလဲဟုတ်တယ်။ ကဿပမြတ်စွာဘုရားသာသနာ နောက်ပိုင်းမှာ ရဟန်းကောင်းခုနစ်ပါးသာရှိတော့၍ တောင်ပေါ်သို့တက်၍ တရားကိုအားထုတ်ကြရာ တစ်ပါးက ရဟန္တာတစ်ပါးက



အနာဂါမ်ဖြစ်သေးတယ်၊ ယခု သာသနာတစ်ဝက်တောင်မှ မလဲသေးဘူး၊ ကေန်ဒိဋ္ဌ ရဟန္တာဖြစ်မှာပဲ၊

ငါတို့လဲ သူ့လိုသာ တောထွက်၍ တရားကိုအားထုတ်ရရင် ကေန်မုချ တရားထူးကို ရမှာပဲ၊ သူ့လိုတောမထွက် အားမထုတ်ရ၍သာ သည်လိုဖြစ်နေတယ်ဟု ညည်းညူ၍ အဖန်ဖန်ချီးကျူးထောပနာစကားကို မိန့်ကြားတော်မူလေသည်။

ညဥ့်အခါများ၌လည်းကမ္မဋ္ဌာန်းနှင့်စပ်သော ပါဠိအဋ္ဌကထာ ဋီကာတို့မှ ထုတ်နုတ်အပ်သော ပါဠိတို့ကိုလည်း ရွတ်ဖတ်သရဇ္ဈာယ်လျက် အောက်ဖော်ပြပါ စကားတို့ကိုသာ အဖန်ဖန်ချီးကျူး ထောပနာ မိန့်ကြားတော်မူသည်ကို အနားတော်မှာ နေစဉ်ဖြစ်၍ ကိုယ်တိုင်နာခံမှတ်သား ကြားနာလိုက်ရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၁၇-၁၁၈-၁၁၉)

## သိမ်သမုတ်ပွဲ၌ ကျည်မထွက် မီးမကူး ထူးဆန်းသောအဖြစ်အကြောင်း

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် တရားထူးရတော်မူပြီးနောက် ရဟန္တာဖြစ်သွားပြီဟူ၍ ကျော်စောနေသောကာလတွင် သမုတ်ပွဲတစ်ခု၌ သေနတ်ပစ်ဖောက်ရာ ကျည်ဆန်မထွက် မီးမကူးဘဲနေကြောင်း ဖတ်ရှုရသည်မှာ အံ့ဩကြည်ညိုဖွယ်ရာဖြစ်ပါသည်။

> ကံဆောင် သံဃာတော် အပေါင်းတို့နှင့်အတူတကွ ထိုင်နေတော်မူကြလျက် သိမ်အောင်ဩဘာစာကို ဘဝင်စေတော်မူကြပြီးသည်အဆုံး၌ သိမ်ဒကာများက မိမိတို့၏ အသိမိတ်ဆွေ သေနတ်ပစ်ဖောက်ရန် အထူးဖိတ်ကြား၍ နေရာအခမ်းအနားဖြင့် အဆိုပါ သမုတ်အပ်သော သိမ်မြတ်၏အနီးတွင် အသင့် ဧည့်ခံစောင့်နေစေသဖြင့် သေနတ်ကို ပစ်ဖောက်ရန် အချက်ပေး၍ ပစ်ဖောက်စေရာ ညောင်လွန့်တောရဆရာတော်ဘုရား အမှူးရှိသော သံဃာတော်များထိုင်နေဆဲ သိမ်ပေါ်သို့ကျော်၍ ပစ်ဖောက်လိုက်ရာ ကျည်ဆန်မထွက် မီးမကူးဘဲနေလေ၏။

ထိုသို့ မယုံမကြည်ဖြင့် ကျည်ဆန်မထွက် မီးမကူးသည်မှာ အံ့ဩစရာမဟုတ်ဟု ထင်သဖြင့် လက်တွေ့ကျကျ စမ်းသပ်သူတို့၏ ဖြစ်ရပ်ကိုလည်း အောက်ပါအတိုင်း ဖတ်ရှုရပေသည်။

> မျက်နှာဖြူအင်္ဂလိပ်သစ်တောအရာရှိသည် အဆိုပါ ကျည်မထွက်မီးမကူးသော ကျည်ဆန်ကိုထုတ်ယူ၍ အခြားကျည်ဆန်ဖြင့် လဲလှယ်၍ ရှေးကအတိုင်း ပစ်ဖောက်ပြန်ရာ မထွက်မီးမကူးဘဲပင် နေပြန်လေသည်။ ယင်းသို့အားဖြင့် ကျည်ဆန် ၅၀ ကျော် ပါသရွေ့အကုန်လုံးပင် လဲလှယ်ပစ်ဖောက်သော်လည်း ကျည်ဆန်တစ်ခုမှမထွက် မီးမကူးဘဲနေရာ မိမိ၏ကျည်ဆန်မှာ ချွတ်ယွင်းချက်ရှိမရှိကို စစ်ဆေးကြည့်ရှုသော်လည်း တစ်စုံတစ်ရာ ချွတ်ယွင်းချက်မတွေ့ရဘဲ အသစ်စက်စက်များဖြင့် အထူးအံ့ဩတွေးတောလျက်ဖြစ်နေစဉ် ညောင်လွန့်တောရမှပါသော ဆရာတော်တစ်ပါးက လက်ပြလျက် သိမ်ပေါ်ရှိ ညောင်လွန့်တောရဆရာတော်ဘုရားအပေါ်မှာ မပစ်စေဘဲ သိမ်မှလွဲသော အခြားနေရာသို့ကျော်၍ ပစ်ရန်အချက်ပြ အမိန့်ရှိသဖြင့် အဆိုပါ မျက်နှာဖြူအင်္ဂလိပ် သစ်တောအရာရှိသည် သိမ်ပေါ် ညောင်လွန့်တောရဆရာတော် ဘုရားများအပေါ်သို့ ကျော်၍မပစ်ဘဲ အခြားသိမ်မှ လွတ်သောနေရာသို့ ကျော်၍ပစ်ကြည့်သောအခါ အဆိုပါမီးမထွက် မကူးသောကျည်ဆန်များအားလုံး



ကုန်ပင် ရှေးကလိုကောင်းမွန် ချောမောပြေပြစ်စွာဖြင့် ထွက်သွားလေကုန်တော့သတည်း။

ထိုကဲ့သို့ ထူးဆန်းအံ့ဩဖွယ်ရာကို တွေ့ရှိရသော မျက်နှာဖြူအင်္ဂလိပ်သစ်တောအရာရှိသည် မိမိသည် တစ်သက်နှင့်တစ်ကိုယ် ဤကဲ့သို့ ထူးဆန်း အံ့ဩဖွယ်ရှိသော ဘုန်းကြီးမျိုးကို မတွေ့ရှိရဖူးကြောင်း အထူးယုံကြည်လေးစား၍ ကိုးကွယ်ဆည်းကပ်ထိုက်သော ပုဂ္ဂိုလ်ထူးဖြစ်ကြောင်းဖြင့် အထူးချီးကျူးကာ အရိုအသေပြုလေသည်။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ ၁၁၉-၁၂၀-၁၂၁)

## မိုးကြီးရွာသွန်းသဖြင့် မိုးကောင်းကိုယ်တော်ကြီးဟု ချီးကျူးရခြင်း

ထိုအချက်ကို အကြောင်းပြု၍ မိုးကောင်းဆရာတော်ဘုရားကြီးဟု တစ်မျိုးတစ်ဖုံ ကြည်ညိုကြပြန်လေသည်။ ဖတ်ကြည့်ပါ။

ညောင်လွန့်တောရ ပတ်ဝန်းကျင် ဂေါစရဂါမ်နယ်ပယ်တို့၌ များသောအားဖြင့် မိုးမခေါင်ဘဲ သူများ အရပ်တကာတို့ထက်သာလွန်၍ မိုးကောင်းလေသည်။ တစ်ခါတလေ နှစ်နှစ်သုံးနှစ်ဆက်ပြီး ပတ်ဝန်းကျင် အရပ်ဒေသတို့၌ မိုးခေါင်၍ လယ်ယာ ကိုင်းများမလုပ်ရဘဲနေကြရာ ညောင်လွန့်တောရ ဂေါစရဂါမ်အတွင်းကွက်၍ မိုးရွာသွန်းသဖြင့် လယ်ယာကိုင်းများ အထူးကောင်းမွန်စွာ လုပ်ကိုင်ကြရသဖြင့် ပတ်ဝန်းကျင်အရပ်တို့မှလူအများတို့က သူတို့ရွာတွေက မိုးကောင်းမှာပေါ့၊ ညောင်လွန့်တောရကျောင်းကြီးရှိတာကိုဟူ၍ပင် ပြောဆိုကြရလေသည်။

ရမည်းသင်းမြို့မှ အခွန်တော်စီးကြပ်ကြရသော အချို့သောမျက်နှာဖြူ အစိုးရအရာရှိ ဘာသာခြားအတွင်း ညောင်လွန့်တောရ ဂေါစရဂါမ်ရွာနယ်မြေအတွင်းမှာသာ အခွန်တော်စီးကြပ်ကောက်ယူ၍ အခြားပတ်ဝန်းကျင်အရပ်တို့မှ မိုးမရွာ၍ အလုပ်မလုပ်ကြရသဖြင့် အခွန်တော်များပင် အထင်အရှား မကောက်ယူရသောကြောင့် ညောင်လွန့်နယ်ဟာ တယ်ထူးခြားပါကလား၊ မိုးအလွန်ကောင်းလှသည်။ သည်ညောင်လွန့်နယ်မှာသာ မိုးကွက်၍ရွာလှသည်။ ရွာမှပေါ့ အလွန်အကျင့်ကောင်းသောဘုန်းကြီးများရှိတာကိုး ညောင်လွန့်တောရ ဆရာတော်ဘုရားကြီးဟာ မိုးကောင်းကိုယ်တော်ကြီးဟု ချီးကျူးထိုက်ပါပေတယ်ဟု ပြောဆိုချီးကျူးကြလေကုန်သတည်း။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ ၁၂၃-၁၂၄-၁၂၅)

## မေတ္တာ သစ္စာ တန်ခိုးတော်ကြောင့် မိုးရွာခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီး၏ မေတ္တာတော်ကြောင့် မိုးကွက်၍ ရွာသည်သာမက ဆရာတော်ဘုရားကြီး၏ နည်းလမ်းအတိုင်း အသီးသီးကျင့်ကြံအားထုတ်ကြပြန်ရာ သစ္စာတန်ခိုး မေတ္တာတန်ခိုး သီလတန်ခိုးကြောင့် မိုးရွာချရပုံကို ဖြစ်ရပ်မှန် ဖတ်ရှုရပြန်ပါသည်။

တစ်ရံသောအခါ ဂေါစရဂါမ်မှာပင် မိုးခေါင်နေပြန်သဖြင့် ညောင်လွန့်တောရဆရာတော်ဘုရားသည် တပည့်သံဃာ ၁၀၀ ကျော် ပရိသတ်တို့အား တရားဓမ္မဟောပြောပြီး သီလကို အထူးသုတ်သင်စေ၍ မေတ္တာတရားကိုလည်း ပွားများစေကာ၊ ကိုယ်တော်တို့ အားလုံးသော သံဃာတော်တို့သည် ဒုက္ခိတ သတ္တဝါတွေကို သနားသင့်



ပါသည်။ သို့အတွက် သဗ္ဗေသတ္တာ ဒုက္ခာ မုစ္စန္တု သမ္မာဒေဝေါပဿတု ဟုရွတ်ဆို၍ ပုတီးစိပ်ပွားများကြပါဟု တိုက်တွန်းဟောပြောတော်မူပြီး ကိုယ်တော်တိုင်ကြွ၍ ရွာတွင် လူအများကို အားလုံးကိုယ်၄ ငါးပါးသီလ ခံယူဆောက်တည်ကြကာ သီလ စောင့်ထိန်းပြီး 'သဗ္ဗေသတ္တာ ဒုက္ခာ ရမုစ္စန္တု သမ္မာဒေဝေါ ပဝဿတု' ဟု အသီးအသီး ရွတ်ဆို ဆုတောင်းကြရန် ဟောပြော၍ သီလပေးပြီး ပြန်ကြွတော်မူရာ ထိုနေ့ညဦးပင် မိုးကြီးသည် သည်းထန်စွာရွာချလေရာ အားလုံး ဝေါစရဂါမ်ရွာတွေ ရေရ၍လယ်ယာ များ စိုက်ပျိုးနိုင်ကြလေကုန်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၂၃-၁၂၄-၁၂၅)

## နေမိန္ဒရတောင်ပေါ်၌ တန်ခိုးကြီးသော နတ်များလာ၍ ပူးမြော်လျှောက်ထား တရားနာကြခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီးအား နတ်များလာရောက်ဖူးမြော်ပြီး ကိစ္စနှင့်စပ်လျဉ်း၍ မှတ်တမ်းများတွေ့ရှိရပါသည်။ တစ်ရံရောအခါကဖြစ်ပါသည်။

ညောင်လွန့်တောရဆရာတော်ဘုရားသည် တောင်ပေါ်သို့ ရောက်သောညဦးက အချိန်စောစော ၌ပင် အဖူးအမြော် တရားနာလာကြသော ဒကာ ဒကာမတို့ကို ပြန်လွှတ်လိုက်ပြီး တပည့်အလုပ်အကျွေး တို့ကိုလည်း ကိစ္စအမြန်ပြီးအောင် ပြုလုပ်စေပြီး စောစောပင် ပြန်လွှတ်ပြီးလျှင် တောင်ပေါ်၌ ကိုယ် တော်တစ်ပါးတည်း သီတင်းသုံးနေတော်မူခဲ့၍ ရှေးဦးစွာ မြတ်စွာဘုရားအား အာရုံပြု ရှိခိုးကန်တော့ပြီး ပရိတ်တော်များကို ရွတ်ဖတ်သရဇ္ဈာယ်၍အပြီးတွင် ရှေးဦးစွာ နေမိန္ဒရတောင်၌ စောင့်ရှောက်နေထိုင်ကြ ကုန်သော နတ်များ အစောင့်များ အလုံးစုံသော သတ္တဝါများအား လောကီ မေတ္တာ အပ္ပနာမေတ္တာတို့ကို ပွားများ၍ ပို့တော်မူလေသည်။

ထိုအခါ အောက်ပါ ဖြစ်ရပ်ဆန်းကို တွေ့ရပါသည်။ ဖတ်ကြည့်ပါ။

> မေတ္တာများကို အထူးပို့ပြီးနောက် နေမိန္ဒရတောင်တစ်ခုလုံးကိုခြုံ၍ အားလုံး တို့ကို ဆင်ခြင်သုံးသပ်ကြည့်တော်မူရာ မိမိတောရကျောင်းမှကြည့်စဉ် ကာလကထက် ထင်လင်းစွာ တောင်ကိုစောင့်ရှောက်လျက် နေကြကုန်သော တန်ခိုးကြီးမားသော နတ်ကြီးများကို အခြံအရံများစွာနှင့်တကွ မိမိ၏အနီးသို့ပင် ဆည်းကပ်ခစားကြလျက် ရောက်နေကြသည်ကို တွေ့မြင်ရလေသည်။
>
> ထိုအခါ ဆရာတော်ဘုရားသည် အဆိုပါနတ်တို့အား ကရုဏာ မေတ္တာတရား ကြီးစွာထားကာ တရားမဂ္ဂကို ဟောပြောတော်မူလိုက်သောအခါ အကြီးအကဲဆုံး နတ်မင်းကြီးက လက်အုပ်ချီခိုးလျက် အရှင်ဘုရားအား တပည့်တော်တို့ ကြည်ညိုလေး စားတာကြာပါပြီ။ ဤတောင်၌ တပည့်တော်ဟာ အကြီးအကဲဆုံးပါပဲ။ တပည့်တော် ပြီးရင် အားလုံးပြီးနိုင်ပါကြောင်း ဤတောင်၌ အရှင်ဘုရား သဘောတော်ကျသလို သိမ်သမုတ်ခြင်း ကမ္မဋ္ဌာန်းကျောင်းတည်ခြင်းကို တပည့်တော်များ ခွင့်ပြုအပ်နှင်းပါ ကြောင်း တတ်နိုင်သလောက်ကိုပဲ အမြဲစောင့်ရှောက်ကူညီနေမည်ဖြစ်ပါကြောင်းကို လျှောက်ထားလေသည်။ ညောင်လွန့်တောရဆရာတော်ဘုရားကြီးသည် တရားထပ်မံ ဟောပြောပြီး ပြန်ခွင့်ပြုလိုက်သောအခါ အားလုံးပင်ရွှေ့တော်မှုဖဲ၍ အသီးအသီး မိမိတို့နေရာသို့ ပြန်သွားကြလေသည်။ ထိုနောက် မကြာမီပင် အရုဏ်တက်၍ မိုးသောက်လင်းတော့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅၄-၁၅၅-၁၅၆)



## သုဝဏ္ဏဘူမိ သထုံမြို့တည် နန်းတည်ဘုရင်ဟောင်း တောင်စောင့်နတ်ကြီးများလာ၍ တရားနာလျှောက်ထားကြခြင်း

ညောင်လွန့်တောရ ဆရာတော်ဘုရားသည် မိုးလင်းသော နောက်တစ်နေ့တွင် လာရောက်သူ ရဟန်းပရိသတ် လူပရိသတ်တို့အား အထိုက်အလျောက် တရားဟောပြောတော်မူပြီး ညဉ့်အချိန်သို့ ရောက်သောအခါ တရားနာသူ ပြုစုလုပ်ကျွေးသူတို့အား ပြန်လွှတ်လိုက်ပြီး အရင်နေ့ကလိုပင် အားလုံး တို့အား လောကီမေတ္တာ အပ္ပနာမေတ္တာများပွားများပြီး အထူး ဝိသေသအားဖြင့် အရှေ့ဘက်တောင်ကြီး တစ်ခုလုံးကိုခြုံ၍ အစောင့်အရှောက်နတ်များ အလုံးစုံသောသတ္တဝါများအားထပ်မံ၍ လောကီမေတ္တာ အပ္ပနာမေတ္တာပွားများပြီးနောက် ဆင်ခြင်သုံးသပ်ကြည့်တော်မူသောအခါ ယခင်နေ့ကထက် ပို၍ အံ့ဖွယ်ကောင်းသော ဖြစ်ရပ်ဆန်းများတွေ့ရကြောင်း ဖတ်ရှုရပါသည်။

> အရင်နေ့က နေမိန္ဒရတောင်စောင့်နတ်ကြီးများထက် တန်ခိုးအရောင်အဝါ အခြွေအရံများပြားလှ၍ မရေမတွက်နိုင်လောက်အောင် နေမိန္ဒရတောင်တစ်ခု လုံး မဆံ့အောင် ပြည့်နှက်လျက်ရှိသော နတ် ကုမ္ဘဏ် ဘီလူး သရဲ သဘက် စသော ပရိသတ်တွေနှင့်တကွ အကြီးဆုံးနတ်မင်းကြီးများသည် ဆရာတော် ဘုရား၏ ရှေ့တည့်တည့်တွင်ရောက်လျက် ခစားနေသည်ကို ထင်လင်းစွာတွေ့ မြင်ရလေသည်။
>
> ဆရာတော်ဘုရားသည် ထပ်မံ၍ အပ္ပနာမေတ္တာပွားများပြီး တရားဓမ္မ ဟောပြောလိုက်သောအခါ ဆရာတော်ဘုရား၏ သာသနာရေးကိစ္စဟူသရွေ့ကို တတ်နိုင်သ၍ ဘေးကင်းစွာနှင့် အောင်မြင်စွာပြီးမြောက်အောင် စောင့်ရှောက် ကူညီပါမည်။ ဤနေမိန္ဒရတောင်စောင့်နတ်များကိုလဲ အမိန့်ပေးပြီးပါပြီ။ အရှင် ဘုရား ဝမ်းမြောက်ဝမ်းသာကြောင့်ကြမဲ့ ဆောင်ရွက်တော်မူပါလျှောက်ထားပြီး ထပ်မံ၍ လျှောက်ထားသည်မှာ တပည့်တော်သည် ဤသထုံမြို့ကြီးကို အစ ကနဦး တည်ထောင်ခဲ့သော ပုဂ္ဂိုလ်ကြီးတစ်ဦးဖြစ်ပါသည်ဟု လျှောက်ထား၍ ရှိခိုးပြန်သွားလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅၆-၁၅၇)

## သထုံ ဘုရင်ဟောင်း မြို့စောင့်နတ်ကြီးများလာ၍ တရားနာကြခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီးအား သုဝဏ္ဏဘူမိခေတ်က ဘုရင်မင်းမြတ်များ တစ်ဖြစ် လဲ မြို့စောင့်နတ်မင်းကြီးများ လာရောက်ဖူးမြော်ကြောင်း မှတ်တမ်းတွေ့ရပါသည်။ ဖြစ်ပုံမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

> ကိုယ်ရောင်ကိုယ်ဝါ လွန်ကဲ တောက်ပစွာနှင့် အခြွေအရံ များမှာလည်း ယခင်ကတောင် စောင့်နတ်များထက် အဆပေါင်းများစွာ သာလွန်၍ ပုထုဇဉ်ပုဂ္ဂိုလ်သာမန်တို့စိတ်၌ ဖောက်ပြန်လောက်အောင် ကြည်နူးသာယာ နှစ်သက်ဖွယ်ကောင်းလှသော ဝတ်စား တန်ဆာ အဆင်းတို့ဖြင့် တောင်ပေါ်တွင်မက တောင်အဝန်း မြို့အဝန်း တစ်ခုလုံး ထိန်လင်းလျက် နတ်မင်းကြီးများက ရှေ့ဆောင်၍ ရှေ့ဝော်မှောက်၌ ခစားဝတ်ပြုနေ သည်ကို ထင်လင်းစွာတွေ့ မြင်ရပြန်လေသည်။
>
> ဆရာတော်ဘုရားသည် မေတ္တာကို အထူးစူးစိုက်ပို့တော်မူပြီး နတ်မင်းကြီး



များကို အနီးခေါ်တော်မူ၍ တရားမွှေဟောပြော ဆုံးမပြီးသောအခါ ရှေ့တည့်တည့်မှ အကြီးဆုံးနတ်မင်းကြီးက အရှင်မြတ်ဘုရား အရှင်မြတ်၏ သာသနာပြုကိစ္စသည် မုချအောင်မြင်ပါလိမ့်မည်၊ ရှေးအဖို့ ကာလကပင် တပည့်တော်များ အထက်နတ်မင်းကြီးများ၏ အမိန့်မှတ်ချက်အရ အရှင်ဘုရားသာသနာပြု သိမ်သမုတ် ကြွလာပါလျှင် အနှောင့်အယှက်မရှိအောင် စောင့်ရှောက်ရမည်၊ ကူညီရမည်၊ အရှင်မြတ်၏ အရင် ရှေ့အဖို့၌ မည်သည့်ပုဂ္ဂိုလ်မှ ဤတောင်၌မနေရ၊ တစ်စုံတစ်ခု သာသနာ့ကိစ္စအလုပ် မခံရဟု အမိန့်ပေးပြီးပါဘုရား တပည့်တော်များ အားလုံးနှင့်တကွ ဤတောင်များတွင် စောင့်ရှောက်နေထိုင်ကြသော အားလုံးသောနတ်များ အစောင့်အရှောက်များမှာ ရှေးက ဤသထုံမြို့တွင် အာဏာလွှမ်းမိုး၍ အုပ်စိုးမင်းပြုသွားသောသူများနှင့် အခြွေအရံများသာ များပါသည်ဘုရား အချို့တစ်ဝက်သာ မဟုတ်ကြပါသည်ဘုရားဟု ကြေကွဲဖွယ်လျှောက်ထား၍ ရှိခိုးဝတ်ချပြီး ပြန်သွားကြလေကုန်သည်။

ဆရာတော်ဘုရားသည်လည်း တောင်စောင့်နတ်များ မြို့စောင့်နတ်များ၏ လျှောက်ထားချက်အတိုင်း ဆင်ခြင်သုံးသပ်ကြည့်တော်မူသောအခါ ရှေးအခါက သထုံမြို့ကို ဘုရင်တစ်ဆူ မင်းပြု၍သွားကြသူ အပေါင်းတွင် အချို့က ငရဲသို့ကျကြသည်။ အချို့က အထက်နတ်ပြည်တို့၌ ဖြစ်ကြသည်ကို သိရှိတော်မူရပြီး အများအားဖြင့် မိမိတို့၏ ကျေးကျွန်သင်းပင်းများနှင့်အတူတကွ အသီးအသီး အစုလိုက်အစုလိုက်ပင် တောင်စောင့်နတ်များ၊ မြို့စောင့်နတ်များ၊ နတ်စိမ်း သရဲသဘက်များ၊ ပြိတ္တာအုပ်စုများ ဖြစ်ကြလျက် သထုံမြို့နှင့်တောင်များ အနီးအနားပတ်ဝန်းကျင်ဒေသများတို့၌ ဖြစ်ကြလျက် နေရကြသည်ကို ကြေကွဲဝမ်းနည်းဖွယ်ရာ အမျိုးမျိုးတို့ဖြင့် ထင်လင်းစွာ တွေ့မြင်တော်မူရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅၇-၁၅၈-၁၅၉)

ညောင်လွန့်ဆရာတော်ဘုရားကြီး နိဗ္ဗာန်ရွှေပြည်မြတ်သို့ ဝင်တော်မူပုံမှာလည်း အလွန်ဆန်းပါသည်။ မိမိထက် သိက္ခာကြီးသော ဆရာတော်အရှင်မြတ်များအား ကန်တော့ပြီးနောက် ည ၁၁ နာရီလောက်တွင် ငုတ်တုတ်ထိုင်တော်မူရင်း ပုတီးကိုကိုင်ကာ ခန္ဓာဝန်ချတော်မူကြောင်း ထူးဆန်းစွာ တွေ့ရပါသည်။

## ငုတ်တုတ်ထိုင်ရင်း ပုတီးကိုကိုင်ကာ ခန္ဓာဝန်ချ

၁၉၃၃ ပျော်ဘွယ်မြို့ ကျောင်းအမ ဒေါ်စော ဆောက်လုပ်လှူဒါန်းသော ကျောင်းကြီးအောက်ထပ်၌ လျောင်းတော်မူရာ ခုတင်တော်မှ ရွှေ့ပြောင်း၍ စာချတော်မူရာဖြစ်သော ကုလားထိုင်ခုံပေါ်၌ ထိုင်တော်မူလျက် တပည့်သံဃာတော် ပရိသတ်တို့အား တရားရေအေးအမြိုက်ဆေးကို တိုက်ကျွေးဟောပြောတော်မူပြီး ထိုခဏ၌ ကြွရောက်လာတော်မူသော မိမိထက် သိက္ခာတော်ကြီးတော်မူသော လယ်ဝေးမြို့ မြွေရိုးကြီးကျောင်းတိုက် ပဌမပတ္တဂိုဏ်းဆရာတော်ကြီး ဦးအာစရ၊ ပဌမကျော်တောရ ဆရာတော်ကြီး ဦးဇော်အရှင်မြတ်နှစ်ပါးတို့အား ရှိခိုးကန်တော့ပြီး၍မကြာမီ အေဒီ ၁၉၃၃၊ ဇွန်လ ၁၀ ရက်၊ စနေနေ့ (၁၂၉၅ ခုနှစ်၊ နယုန်လပြည့်ကျော် ၃ ရက်နေ့) နေ့ည၌ ၁၁ ချက်တွင် ငုတ်တုတ်ထိုင်တော်မူရင်း ပုတီးကိုကိုင်တော်မူကာ အနုပါဒိသေသ နိဗ္ဗာနဓာတ်ဖြင့် ချုပ်ငြိမ်း၍ နိဗ္ဗာန်ရွှေပြည်မြတ်သို့ ဝင်စံတော်မူလေတော့သတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၈၆)



## ပရိနိဗ္ဗာန်မဝင်စံမီ တစ်နှစ်လောက်ကစ၍ နတ်များ ပြာသဒ်ကြီးဖြင့် ပူဇော်လျက်လိုက်နေခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် မိမိပရိနိဗ္ဗာန်မဝင်စံမီ ကတည်းပင်လျှင် ထိုအကြောင်းတို့ကို မကြာမကြာ မိန့်တော်မူကြောင်း နောင်မှသတိရကြပါတော့သည်။

၁၉၃၃ ကျေးဇူးတော်ရှင် ညောင်လွန့်တောရ ဆရာတော်ဘုရားကြီးသည် ပရိနိဗ္ဗာန်မဝင်စံမီ တစ်နှစ်လောက်ကပင် မကြာမကြာ အမိန့်ရှိတော်မူသည်မှာ ဘုန်းကြီးတို့ ဦးပဥ္စင်းတို့ ငါတို့တော့ မုချကြာကြာ မနေရတော့ဘူး၊ ငါတို့မှာနောက်မှ ထက်ကြပ်မကွာ အမြဲသာလျှင် အလွန်တရာ အရောင်တောက်ပ တင့်တယ်လှပ ကြီးကျယ်လှသော ပြာသဒ်ကြီးသည် လိုက်လျက်သာနေသည်ကို မြင်လျက်သာနေသည်။ ဤသို့ ပြာသဒ်ကြီးကို မြင်ရသည်မှာ မကြာလှသေးဘူး၊ ယခုနှစ်မှသာ မြင်လာရသည်။ ထို့အတွက် ငါတို့တော့ မုချမနေရဘူးဟူ၍ ပရိနိဗ္ဗာန်ဝင်စံမည့် အေဒီ ၁၉၃၃ ၊ (၁၂၉၅ ခုနှစ်) မဆန်းမီ အေဒီ ၁၉၃၂ ခု (၁၂၉၄ ခုနှစ်) ဝါကျွတ်သော အချိန်အခါ လောက်ပင်စ၍ မကြာမကြာ အမိန့်ရှိတော်မူသဖြင့် ထိုစဉ်ကတပည့် အားလုံးပင် ကြားသိကြရလေကုန်သည်။

ထိုအချက်ကို ကြားသိသူများက ရိပ်မိကြသော်လည်း ဘာမှ ဝေဖန်ပြောဆိုခြင်းမပြုခဲ့ပါ။ တပည့်များက အများ၏ ဝမ်းနည်းအားငယ်မည်ကို စိုးရိမ်သဖြင့် မည်သို့မှ မဝေဖန်မပြောဆိုကြဘဲ နေကြရာ ပရိနိဗ္ဗာန်ဝင်စံတော်မူသွားမှပင် ငါတို့ဆရာတော် ပရိနိဗ္ဗာန်မဝင်စံမီက ပြာသဒ်ကြီးလိုက်နေသည်ကို မြင်နေရသည်ဟု အမိန့်တော်ရှိသည်မှာ အခြားမဟုတ် ပရိနိဗ္ဗာန်ဝင်စံတော့မည်ဖြစ်သဖြင့် နောက်ဆုံးပိတ် ပရိနိဗ္ဗာန်မဝင်စံမီ နတ်များက ရတနာပြာသဒ်ကြီးဖြင့် ပူဇော်ကြသည်ကို မြင်တော်မူခြင်းဖြစ်သည်ဟု ဆုံးဖြတ်ကြလေကုန်သတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၈၈-၁၈၉)

## ထူးဆန်းသော အံ့သြဖွယ်ရာ ပုဗ္ဗနိမိတ်များဖြစ်ပေါ်လာခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုတော်မူသောအခါ ထူးခြားသော ဖြစ်ရပ်များ ဖြစ်ပွားခဲ့လေသည်။ နေနာရီ တိုက်ကြီးအလိုလိုပြိုလဲခြင်း၊ ၎င်းနောက် ငှက်ကျားတစ်ကောင် အော်မြည်ဖြတ်သန်းခြင်း၊ ၎င်းနောက် လူမရှိဘဲ အသံများဖြစ်ပေါ်ခြင်း၊ ၎င်းနောက် တောထဲက ပန်းများ အခါမဟုတ်ဘဲ ဖူးပွင့်ကြခြင်း စသည်တို့သည် ထူးခြားသော နိမိတ်များဖြစ်လေသည်။ ထိုအချက်ကို အောက်ပါအတိုင်းဖတ်ရှုရပါသည်။

ကျေးဇူးတော်ရှင် ညောင်လွန့်တောရဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ဝင်စံတော်မူခါနီး နာမကျန်းဖြစ်တော်မူသောအခါ ဆွမ်းစားကျောင်းအနီး စိုက်ထူထားအပ်သော ကာလသမ္မုခေါ်သော နေနာရီတိုက်ကြီးသည် လေမတိုက်မိုးမရွာ မည်သူမှ မလှုပ်မကိုင်ဘဲ အလိုအလျောက် တည့်မတ်စိုက်ထောင်နေရာမှ မြေသို့လဲပြို၍ ကျသွားလေသည်။

ကျောင်းတိုက်ကြီး၏ အရှေ့မြောက် တနင်္ဂနွေထောင့်အရပ်မှ ကြက်ဖကြီးခန့် ပမာဏရှိသော ငှက်ကျားကြီး တစ်ကောင်သည် ကျောင်းထောင့်အပေါ်က ဝဲပျံကာ ကြောက်လန့်ဖွယ်အသံကြီးကို အကြိမ်များစွာ အော်ဟစ်ငိုကြွေးမြည်တမ်းလျက် ဖြတ်သန်းသွားလေသည်။



ကျောင်းတိုက်ကြီး၏ ပတ်ဝန်းကျင် အရပ်လေးမျက်နှာတို့မှ လူသူမရှိဘဲ အလိုအလျောက် အုတ်အုတ်ကျက်ကျက် စိုးရိမ်ပူဆွေးသကဲ့သို့သော ဟာဟာဟူသော အသံတို့သည်လည်း ဆူညံလျက် မြည်ဟီးလာကြကုန်၏။

ကျောင်းတိုက်ကြီး၏ ပတ်ဝန်းကျင်မှ တစ်တောလုံးရှိ သစ်ပင်တို့သည်လည်း အခါမဲ့ပန်းတို့ကို ပွင့်လာကြလေကုန်၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၈၉-၁၉၀)

ညောင်လွန့်ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုသောအခါ တေဇောဓာတ် လောင်ကျွမ်းပုံမှာလည်း ဆန်းကြယ်အံ့သြ ကြည်ညိုဖွယ်ဖြစ်ပါသည်။ အမွေးနံ့သာထင်းများ အလိုအလျောက် ရောက်လာစုပုံနေခြင်း၊ ၎င်းအပြင် နံ့သာဆီ ရေမွှေးများ အလိုလိုရောက်ရှိခြင်း စသော ထူးခြားချက်များဖြစ်ပါသည်။ ထိုအချက်တို့ကို မှတ်တမ်းတွင် ဖတ်ရှုကြည်ညိုရပါသည်။

## တစ်စုံတစ်ယောက်သောသူမှ ထင်းတို့ကို မစုပုံဘဲ

တေဇောဓာတ်တုဒဟန ကိစ္စပြုမည့် နေရာမှာလည်း တိုင်လေးဖက် စိုက်ထူ၍ ရာဇမတ် ကာပြီးလျှင် အပေါ်မှ ၄က်ချေးခံ ပိတ်ဖြူခါသာ မိုးကြက်ထားလျက် ပြုပြင်စီမံထားရာ တစ်စုံတစ်ယောက်သောသူမှ ထင်းတို့ကို မစုပုံဘဲ အလိုအလျောက်ပင် အလျား ၄ တောင်ခန့် အနံ ၃ တောင်ခန့်သာသာ ကျယ်ပြန့်လျက် အမြင့် ၃ တောင်လူကြီးတစ်ရပ်ခန့်ပမာဏရှိသော အကျော် စမ္ပါကရမက် နံ့သာဖြူ နံ့သာနီ သနပ်ခါးစသော အဖိုးတန် နံ့သာတုံးတို့ဖြင့်သာ စုပုံကာ ညီညာစွာထားပြီးသား ဖြစ်ပေါ်၍ လာလေသည်။ နံ့သာဆီ ရေမွှေးနံ့ ရေမွှေး နံ့သာပျောင်းစသည်တို့ဖြင့်လည်း ပတ်ဝန်းကျင်မှာ စုပုံလျက် ပူဇော်ကြလေကုန်သတည်း။ အဆိုပါ အလိုအလျောက်စုပုံကာ ပေါ်ပေါက်လာသော နံ့သာထင်း ပုံကြီးပေါ်မှာပင် အလောင်းတော်ကို ခေါင်းပါတင်၍ အားလုံးသော လူရှင် ရဟန်းတို့သည် အတိုင်းမသိ နှမြောပူဆွေးစိုးရိမ် ငိုကြွေးကြလျက် နောက်ဆုံး ပိတ် အရိုအသေ အလေးအမြတ် ပူဇော်ကန်တော့ခြင်းကို ပြုကုန်ကြစဉ်ပင် တေဇောဓာတ်လောင်ကျွမ်း၍ လာလေတော့သတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း၊စာ ၁၉၂)

## ဓာတ်တော်ဆေးမိုးကြီး သည်းထန်စွာရွာသွန်းခြင်း

ညောင်လွန့်ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုသောအခါ အရိုးဓာတ်တော်များ ဖူးမြော်ရပါသည် ဟူ၍လည်းကောင်း၊ ဓာတ်တော်ဆေး မိုးကြီး ရွာသွန်းသည်ဟူ၍လည်းကောင်း ကြည်ညိုဖွယ်ရာ ဖတ်ရှုရပါသည်။

အလောင်းတော်ကို တေဇောဓာတ်လောင်၍ ဆုံးခါနီး ညနေ ၄ နာရီအချိန်တွင် ရှေးအဖို့ကာလက မိုးသားတက်၍မိုးအုံ့ခြင်း၊ လေတိုက်ခြင်း စသည် တစ်စုံတစ်ရာ မရှိဘဲ ရုတ်တရက်ပြုန်းခနဲ မိုးတိမ်တက်ပြီး အရိုးဓာတ်တော်ဆေးမိုးကြီးသည် မကြုံဖူးအောင်သည်းထန်စွာ ရွာသွန်းချလေတော့သတည်း။

ယင်းသို့ အရိုးဓာတ်တော်ဆေးမိုးကြီး ရွာသွန်းချသဖြင့် အရိုးတော်ဓာတ်တို့ကိုလည်း လွယ်ကူစွာ ကောက်ယူနိုင်ကြလေသည်။ အားလုံးသော လူ ရှင် ရဟန်း ပရိသတ်ကြီးသည် မိုးသည်းထန်စွာရွာသွန်းချသော်လည်း တေဇောဓာတ် လောင်ရာ



ဌာနမှ မခွာသေးကြဘဲ ပူဇော်ဖူးမြော်လျက်သာနေကြ၍ အရိုးတော်ဓာတ်တို့ကို ဝိုင်း၍ လုယူကြမည်ပြုရာ အစိုးရမင်းများနှင့် သံဃာတော်တို့က တားမြစ်ကြပ်မတ်၍ မည်သူအားမျှ မကောက်ယူစေမူ၍ တစ်လုံးတစ်စည်းတည်း သံဃာတော်များသာ ကောက်ယူထားရလေသည်။ ထိုသို့ သည်းထန်စွာ ရှာသွန်းချသော အရိုးတော် ဓာတ်ဆေးမိုးကြီးကြောင့် တစ်တောလုံးနှင့် တောရကျောင်းတိုက်ကြီးမှာ သန့်ရှင်း စင်ကြယ်သွားလေတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၉၃-၁၉၄)

## အရိုးဓာတ်တော်တို့ကို ကိုးကွယ်ထားကြခြင်း

ၚင်းနောက် ဆရာဘော်ဘုရားကြီး၏ တပည့် ဒါယကာ ဒါယကာမတို့၏ ကောင်းမှုဖြင့် ရဟန္တာ အရှင်မြတ်ကြီး၏ ဓာတ်တော်များကို ယနေ့တိုင် ကိုးကွယ်ထားကြောင်းသိရှိရပါသည်။

ပထမမိုးနံကုန်း ဆရာတော်ဘုရားကြီး၏ အရိုးအိုးစေတီတော်ကြီး မြောက်ဘက်အနီး တွင် ယှဉ်ကပ်လျက် ပလ္လင်နှင့် ရုပ်ပွားတော်ကြီး တည်ဖန်ဆင်း၍ အရိုးတော် ဓာတ်များ ကို မြတ်စွာဘုရား ဓာတ်တော် ရဟန္တာအရှင်မြတ်တို့၏ ဓာတ်တော်တို့နှင့်တကွ ကောင်းမွန်စွာ ဌာပနာပြီးလျှင် ခေတ္တသစ်သားအာရုံခံ တန်ဆောင်းတော်ကြီးဖြင့် ကိုးကွယ်တည်ထားရာ ယနေ့တိုင်အောင် အထင်အရှားရှိလေသတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၉၄)

နတ်များ စောင်မပေးခြင်းကြောင့် ညောင်လွန့်ဆရာတော်၏ ဂုဏ်သတင်းသည် အမြို့မြို့ အနယ်နယ်သို့ ပျံ့နှံ့ကျော်ကြားသွားပြီးလျှင် အနယ်နယ်အရပ်ရပ်မှ ဆန်အိတ်၊ ဆီပုံး၊ ငါးပိ၊ ငါးခြောက် သက်န်းစသော ပစ္စည်းလေးပါးတို့သည် ညောင်လွန့်တောရသို့ မီးရထား၊ ကားတို့ဖြင့် အဆက်မပြတ် ရောက်လာကြကုန်၏ဟူ၍ အံ့သြကြည်ညိုဖွယ်ရာဖတ်ရှုရပါသည်။

(ကျမ်းကိုး။ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘ၀ဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီဂီပုံနှိပ်တိုက်၊ စာ ၁၄၃ )

၁၉၃၃ အေဒီ ၁၉၃၃၊ ဇွန်လ ၁၀ရက်၊ စနေနေ့ (၁၂၉၅ ခုနှစ်၊ နယုန်လပြည့်ကျော် ၃ ရက်နေ့) နေ့ည၌ ၁၁ ချလျက် ငုတ်တုတ်ထိုင်တော်မူရင်း ပုတီးကို ကိုင်တော် မူကာ အနုပါဒိသေသ နိဗ္ဗာနဓာတ်ဖြင့် ချုပ်ငြိမ်း၍ နိဗ္ဗာန်ရွှေပြည်မြတ်သို့ ဝင်စံတော်မူလေတော့သတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၈၆)

ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေးသော ရဟန်းထူး

# မယ်ဒက် ဆရာတော်ဘုရားကြီး

အေဒီ ၁၈၆၉ – ၁၉၄၃ (၁၂၃၀– ၁၃၀၅ )





၁၉၇၉ (ကျမ်းကိုး၊ ၁၉၇၉ ခုနှစ်လောက်တွင် ကျွန်တော်သည် အလွန်ထူးဆန်းသော ဆေးဆရာကြီးတစ်ယောက်၏ အရေးကြီးသော စာတစ်စောင်ကိုဖတ်ခဲ့ရပါသည်။ သူသည် စာရေးဆရာမဟုတ်ပါဟုဆိုပါသည်။ သူ၏အရေးအသားများမှာ အဆီအငေါ်မတည့်ဟုလည်း သူ့ကိုယ်သူထင်ပါသည်။ ထို့ကြောင့် သူ့မှတ်တမ်းကို ဖတ်သူများသည် သူ့အားခွင့်လွှတ်ပါရန် အနူးအညွတ်တောင်းပန်ပါသည်ဟုဆိုပါသည်။ ကျွန်တော် ဖတ်ကြည့်သောအခါ အဆီအငေါ်တည့်ရုံသာမက ကောင်းသည်ဟုထင်ရသည်ထက် ပို၍ကောင်းနေပြီးလျှင် ကျွန်တော် မမျှော်လင့်ထားသော အကြောင်းအရာများကို ဖတ်ရှုရသဖြင့် အံ့ဩဝမ်းသာမိပါသည်။ သူ၏အမည်မှာ ဦးပညာဟူ၍ဖြစ်သည်။

၁၉၃၀ ရှေးအခါက မယ်ဒက် ဘုရားသမိုင်းကို ဦးပုဆိုသူက ရေးသားခဲ့ကြောင်း မယ်ဒက်ရာဇဝင်ကိုလည်း မင်းစလွယ်ဆိုသူက ရေးသားခဲ့ကြောင်းသိရပါသည်။ သို့သော်လည်း ဦးပညာသည် စာအုပ်မထုတ်ဝေမီ နှစ်ပေါင်း ၅၀ ကျော် ၁၉၃၀ ပတ်ဝန်းကျင်လောက်ကတည်းက မယ်ဒက်ဆရာတော်ကြီး၏အပါး၌ ဝတ်ကြီးဝတ်ငယ်ပြုစုခဲ့ဖူးသည်ဖြစ်သောကြောင့် ဆရာကြီးဦးပညာ၏ အရေးအသား အချက်အလက်တို့မှာ ခိုင်ခံ့မှုရှိသည်ဟု ယုံကြည်မိပါသည်။ ထို့ကြောင့် ဆရာကြီးဦးပညာ၏ ကျမ်းစာမှ ရရှိသောအချက် အလက်များကိုဖော်ပြပါမည်။ အောက်တွင် မယ်ဒက်ဆရာတော်ကြီး ထေရုပ္ပတ္တိအကျဉ်းမှာ ဆရာကြီးဦးပညာ၏ အာဘော်အရဖြစ်ပါသည်။

၁၉၈၀ ထူးဆန်းသောအချက်မှာ ၁၉၈၀ ခုနှစ်တွင် အသက်ရာကျော်ရှိနေသော ဆရာကြီးဦးပညာသည် ထိုစာအုပ် ထုတ်ဝေသောအခါ စာမူကို တည်းဖြတ်သူမှာ အခြားမဟုတ် ယက္ခန်းစင်တောင် ဗုဒ္ဓသာသနာပြုအဖွဲ့ ယက္ခန်းစင်တောင် ဆရာတော်ဦးဩဘာသ ကိုယ်တော်တိုင် တည်းဖြတ်တော်မူကြောင်း အတိအလင်းဖော်ပြ ထားသဖြင့် အလွန့်အလွန်ယုံကြည်ဖွယ် အားတိုးဖွယ်ကြည်ညိုဖွယ်ဖြစ်ပါသည်။)

ဆရာတော်ဘုရားကြီး၏ မယ်တော်၊ ခမည်းတော်တို့မှာ ပျဉ်းမနားမြို့ဝန်၏ စာရေးကြီး ဦးဖိုးသူနှင့်ဒေါ်လေးတို့ဖြစ်ကြပြီး ဆရာတော်၏ ငယ်နာမည်မှာ မောင်လှပေါ်ဖြစ်လေသည်။

၁၈၈၅ အေဒီ ၁၈၈၅ ခု ၊ နိုဝင်ဘာ ၂၅ ရက်၊ တနင်္ဂနွေနေ့ (၁၂၄၇ ခုနှစ် တန်ဆောင်မုန်းလဆုတ် ၈ ရက်နေ့) သီပေါဘုရင်အား အင်္ဂလိပ်တို့ ဖမ်းဆီးခေါ်ဆောင်သွားပြီးနောက် ပျဉ်းမနားမြို့၌ ဆူပူလုယက်ရှားမှုများဖြစ်ပေါ်လေ၏။ သူတစ်လူငါတစ်မင်းဖြင့် ဝါးစည်းပြေသကဲ့သို့ဖြစ်ပြီး သူ့ထက်ငါ လုယက်စားသောက်ကြလေ၏။ ထို့အခါ ဆရာတော်ဘုရားကြီးနှင့်အစ်ကိုဝမ်းကွဲတော် (မအေညီအစ်မမှမွေးဖွားသည့်သား) မောင်ဖိုးမောင်တို့သည် ရှင်သာမဏေဝတ်ကြလေသည်။

၁၈၈၅ အေဒီ ၁၈၈၅ ခု၊ (၁၂၄၇ ခုနှစ် )မောင်လှပေါ်မှာ အသက် ၁၇ နှစ်ရှိပြီး မောင်ဖိုးမောင်ထက် ၂ နှစ်ခန့်ကြီး၏ မောင်လှပေါ်၏ ဘွဲ့အမည်နာမမှာ ဝိရိယဖြစ်ပြီး မောင်ဖိုးမောင်၏ ဘွဲ့အမည်နာမမှာ ပညာဝံသဖြစ်၏။

၁၈၈၆ အေဒီ ၁၈၈၆ ၊ ဖေဖော်ဝါရီ (၁၂၄၇ ခုနှစ် တပို့တွဲလ)တွင် ဖင်းရှင်သာမဏေနှစ်ပါးသည် သပိတ်တစ်လုံးစီဖြင့် ဆွမ်းခံကြွလာကြရာ ရေနီမြို့၊ ကျောက်တိုင်တောင်ဘက် အင်္ဂလိပ်နယ်မြေဖြစ်သော မြို့လှမြို့သို့ ၁၀ နာရီခန့်တွင် ရောက်ရှိလာပြီး ဆွမ်းဘုဉ်းပေးကြသည်။ ထိုမှတစ်ဖန် မြို့လှမြို့မှ မင်းလမ်းအတိုင်း ကြွခဲ့ပြန်ရာ



ညအချိန်၌ ရေတာရှည်မြို့နယ်အတွင်းရှိ ပီတူးဘောဂကျောင်းသို့ ရောက်ရှိပြီး တစ်ည အိပ်ကြ၏။ နံနက်မိုးသောက်လင်းသော် ခရီးဆက်ကြပြန်ရာ ပျဉ်းမနားမြို့မှ လာ ရောက်ကျောင်းထိုင်နေသော ဆရာတော်ဦးကုမာရ ကျောင်းထိုင်သည့် ဝက်ဖြူကုန်းရွာ သို့ ရောက်ရှိကြလေသည်။

၁၈၉၆ ထိုအချိန်၌ အစ်ကိုဝမ်းကွဲဖြစ်သူ မောင်ဖိုးမောင်မှာ ရဟန်းဒါယကာပေါ်၍ အသက်ကလည်း ၁၉နှစ်ပြည့်ပြီးဖြစ်သဖြင့် ရဟန်းဖြစ်လေသည်။ ထိုနှစ်သည် အေဒီ ၁၈၉၆ ခု၊ (၁၂၅၈ ခုနှစ်)

မောင်လှပေါ်မှာမူ အသက်မပြည့်သဖြင့် ကိုရင်ဘဝနှင့်ပင် ၂ နှစ်နေပြီးမှ ရဟန်းဖြစ်သည်။ မောင်လှပေါ် ရဟန်းဖြစ်ပြီး တစ်နှစ်အကြာတွင် တိုင်းပြည်မှာ ပြန်လည် ငြိမ်သက်လျက်ရှိပြီး မန္တလေးမြို့ နေပြည်တော်တွင်လည်း သာသနာပိုင် နှင့်တကွ ပြန်လည် ဖွဲ့စည်းထားကြောင်း ကြားသိရသောအခါ မောင်လှပေါ် အစ်ကိုဖြစ်သူ ကိုဖိုးမောင်ကို မန္တလေး နေပြည်တော်သို့ သွားရန်တိုင်ပင်ရာ အစ်ကိုဖြစ်သူမှာ ၄ ဝါရပြီဖြစ်၍ မလိုက်လိုကြောင်းပြောသဖြင့် မိမိတစ်ပါးတည်း မန္တလေးသို့ ကြွသွားလေသည်။

မန္တလေးနေပြည်တော်တွင် မိုးတားသာသနာပိုင် ကျောင်း၌(၇)နှစ်ကျော် စာသင်ခဲ့ပြီး ကေတု မတီမြို့အနီးရှိ ဝက်ဖြူကုန်းရွာသို့ ပြန်ကြွခဲ့လေသည်။

ထိုအခါ အစ်ကိုဖြစ်သူ ရဟန်းဘဝနှင့်မဟုတ်တော့ဘဲ ကလေးတစ်ယောက်အဖေ ဖြစ်နေသည်ကို တွေ့ရသောအခါ လူ့လောက၏ ဖြစ်ပျက်မမြဲတာမှ လွတ်ကင်းရန်အတွက် မိမိကိုယ်မိမိ သာသနာ တော်၌ပင် မြှုပ်နှံတော့မည်ဟုဆုံးဖြတ်ပြီး တောင်ငူအရှေ့ဘက် သောက်ရေခပ်ချောင်းဘေး နဂါးမောက် ရွာ၊ ကျောက်ပါးစပ်ရွာ ရေပါရွာဖြစ်သော ကရင်ရွာများအနက် ကျောက်ပါးစပ်မှ (၈)မိုင်ခန့်အကွာရှိ ကျောက်ဂူထဲတွင် တောရဆောက်တည်၍ သီတင်းသုံးတော်မူသတည်း။

## မယ်အက်ဆရာတော်ဘဝသို့

ဤသို့ မထင်မရှား တစ်ပါးတည်း သီတင်းသုံးတော်မူနေစဉ် ရေတာရှည်မြို့နယ်၊ သာယာကုန်း ကျေးရွာမှ အင်္ဂလိပ် သစ်ကုမ္ပဏီတစ်ခုဖြစ်သော (မယ်ကရိယာ) သစ်ကုမ္ပဏီတွင် ဆင်ခေါင်းလုပ်ငန်း အဖြစ် အမှုထမ်းနေကြသော ဦးထွေးကျော်၊ ဒေါ်မင်းထွေးနှင့် သမီးမအံဇာ၊ ၎င်း၏ခင်ပွန်း ကိုကံရေတို့ သည်လည်း နေထိုင်လျက်ရှိနေကြ၏။

သူတို့၏ နိစ္စဓူဝအလုပ်မှာ သစ်တောကြီးမှ သစ်လုံးများကို ဆင်များဖြင့် ကေတုမတီ တောင်ငူမြို့ အရှေ့ဘက် သောက်ရေခပ်ချောင်းထဲသို့ ဆွဲချရလေသည်။

ထိုသို့နေ့စဉ်နှင့်အမျှ လုပ်ငန်းများကိုလုပ်ရစဉ် ရဟန်းငယ်တစ်ပါးတည်း တောထဲမှ ထွက်ထွက် လာကာ ကရင်ရွာများသို့ဆီသို့ ဦးတည်ပြီး ဆွမ်းခံနေသည်ကို တွေ့ရဖန်များသောအခါ ကြည်ညိုသဒ္ဓါ စိတ်များ ပွားများလာပြီး ၎င်းတို့ထံ ဆွမ်းပင့်ကျွေးလိုကြောင်း လျှောက်တင်သဖြင့် ရဟန်းငယ်သည် သီတင်းသုံးနေရာဖြစ်သော ကျောက်ဂူသို့ လက်ညှိုးညွှန်၍ပြသလေသည်။ ဦးထွေးကျော်နှင့် ဆင်လုပ်သား အပေါင်းပါတစ်စုတို့သည် ရဟန်းငယ်၏စကားကို ကြားရသောအခါ စိတ်မကောင်းဖြစ်လျက် -

ရေတာရှည်သို့သွားရာလမ်း၌ ဘုရားငုတ်တိုတစ်ဆူတည်းရှိပြီး ထိုအနီးအနား၌ ကျောင်းဆောက် လုပ်လှူဒါန်းရလျှင်တော်မည်ဟု အကြံရှိသည့်အတိုင်း ရဟန်းငယ်အား ကျောင်းထိုင်ပါမည့်အကြောင်း လျှောက်တင်ရာ ရဟန်းငယ်က 'ဒကာကြီး တောဝါကောရရဲ့လား' ဟု မေးမြန်းလိုက်သည်။ ထိုရောအခါ တောဝါ၏သဘောကို နားမလည်သော ကိုကံရေက 'မှန်လှပါဘုရား တောဝါဆိုတာမသိလို့ ပြန်လည်



အမိန့်ရှိပါ'ဟုလျှောက်တင်လေရာ တောဝါ၏အမိပွာယ်က ကျောင်းသခ်မ်းနဲ့ တာငါးရာအကွာ၊ ရွာ၊ တဲအိမ်၊ လူနေအိမ်မရှိတဲ့နေရာကို တောဝါလို့ခေါ်တယ်ဟု ပြန်လည်အမိန့်ရှိတော်မူလိုက်၏။ မိန့်တော်မူပြီး မကြာမီ ၎င်းတို့ ဆောက်လုပ်လှူဒါန်းသော ကျောင်းသခ်မ်း၌ သီတင်းသုံးနေထိုင်တော်မူသတည်း။

## မဟာဗောဓိသမိုင်း

ပါတလိပုတ်ပြည်၊ သီရိဓမ္မာသောကမင်းကြီး၏ သားတော် ရှင်မဟိန္ဒသည် မြတ်စွာဘုရားပွင့်တော်မူသော မဟာဗောဓိပင်၏ တောင်ကိုင်းအား ဆေးဒန်းမြင်းသီလာနှင့်ဖြတ်၍ ပင့်ပြီးလျှင် သီဟိုဠ်ပြည်၊ အနုရာဓ ရှေးဟောင်းမြို့၌ စိုက်ပျိုးခဲ့ပါသည်။

၁၉၂၆ ၎င်းမဟာဗောဓိပင်မှာ နှစ်ကြာညောင်း၍ ခြောက်သွေ့လာပြီး လဲကျသွားသဖြင့် ၎င်းနေရာကို ထူပါရုံစေတီ တည်ထားတော်မူသည်။ ထိုသို့တည်ထားရာ မကြာမီ စေတီ၏လေးမျက်နှာအရပ်တွင် ပြန်လည်ပေါက်လာရာ ထိုအပင်မှအသီးကို အလိုရှိသောကြောင့် မယ်ဒကဆရာတော်သည် အေဒီ ၁၉၂၆ ခု (၁၂၈၇ ခုနှစ်)၌ အနုရာဓမြို့ဟောင်းသို့ ဒါယကာလေးယောက်ကို စေလွှတ်လိုက်ရာ ၎င်းဗောဓိသီး သုံးဆယ့်နှစ်လုံး ရလာရာ ၎င်းနှစ် သီတင်းကျွတ်လပြည့်ကျော်တွင် ဗောဓိသီးစိုက်ပျိုးရန်အတွက် အောင်မြေကိုယူရန် မဇ္ဈိမဒေသ သတ္တဋ္ဌာနသို့ စေလွှတ်ပြန်သည်။

၁၉၂၆ ၎င်းမြေများကို သယ်ယူဆောင်လာကြပြီး အေဒီ ၁၉၂၆ ခု၊ ဧပြီ ၂၅ ရက်၊ တနင်္ဂနွေနေ့ (၁၂၈၈ ခုနှစ်၊ ကဆုန်လပြည့်နေ့) ဗောဓိသီး ၁၀ လုံးကို စ၍ပျိုးသည်။ ရက်အနည်းငယ်အတွင်း ဗောဓိပင် ၃၂ ပင်ပေါက်လာသဖြင့် နောက်ထပ် ၁၀ လုံးထပ်ပျိုးပြန်ရာ ၇၅ ပင်ပေါက်လာ၏။

၁၉၂၈ ကျန်ဗောဓိသီး ၁၂ လုံးကို အေဒီ· ၁၉၂၈ ခု (၁၂၉၀ ခုနှစ် ကဆုန်လပြည့်နေ့)တွင် စိုက်ပျိုးသောအခါ အပင်ပေါက် ၁၀၈ ပင်ပေါက်လာပြန်လေ၏။

## ဗောဓိပင်များကို မြန်မာပြည်အတွင်း တန်ခိုးကြီးဘုရားများတွင် ဦးစွာစိုက်ပျိုးခြင်း

ပထမ မယ်ဒကစေတီတော်ကြီး၏ အင်္ဂါထောင့်တွင် တစ်ပင်၊ လွမ်းစေတီဘုရား အင်္ဂါထောင့်တွင် တစ်ပင် စသည်ဖြင့် အစကနဦးပျိုးသော အပင်များကို ပထမစိုက်ပျိုး၏။

၎င်းနောက် ကေတုမတီ တောင်ငူရှိ ရွှေဆံတော်ဘုရားကြီးတွင် တစ်ပင်၊ တောင်ငူမြို့အရှေ့ဘက် မြတ်စောညီ နောင်ဘုရား ကြီးတွင်တစ်ပင်၊ ရန်ကုန်မြို့က ရွှေတိဂုံဘုရားကြီး၏ အင်္ဂါထောင့်တွင်တစ်ပင်၊ သုဝဏ္ဏဘုမ္မိခေါ် သထုံမြို့၊ ရွှေစာရံဘုရားတွင် တစ်ပင်၊ မုတ္တမမြို့၊ မြသိန်းတန်ဘုရားတွင်တစ်ပင်၊ သရေခေတ္တရာခေါ် ပြည်မြို့ရှိ ရွှေဆံတော်ဘုရား တွင်တစ်ပင်၊ မကွေးမြို့၊ မြသလွန်ဘုရားတွင်တစ်ပင်၊ မင်းဘူးနယ် ရွှေစက်တော်ဘုရားတွင်တစ်ပင်၊ အရိမဒ္ဒန ပုဂံပြည် အာနန္ဒာဘုရားတွင်တစ်ပင်၊ ညောင်ဦးမြို့၊ ရွှေစည်းခုံဘုရားတွင်တစ်ပင်၊ ပင်းယမြို့ ရွှေစည်းခုံဘုရားတွင်တစ်ပင်၊ ရတနာပူရအင်းဝမြို့၊ စန္ဒမုနိဘုရားကြီးတွင် တစ်ပင်၊ အိမ်တော်ရာဘုရားကြီးတွင် တစ်ပင်၊ သကျသီဟဘုရားတွင်တစ်ပင်၊ မန္တလေးမြို့က အရှေ့ဘက် ရွှေနားမြောင်းကျချောင်းအနီး စောမွန်လှတည်ထားခဲ့သော ရွှေစာရံဘုရားတွင်တစ်ပင်၊ ပတ္တမြားစေတီတွင် တစ်ပင်၊ ငါးထပ်ကြီးဘုရားတွင် တစ်ပင်၊ ကောင်းမှုတော်ဘုရားတွင် တစ်ပင်၊ ရွှေဘိုမြို့ ပုသိမ်တော်ကြီးဘုရားတွင် တစ်ပင်၊ မိုးကုတ်မြို့နယ် သပိတ်ကျင်းမြို့အနီး ဧရာဝတီမြစ်လယ်ကျွန်းမှ



သီဟတောဘုရားတွင် တစ်ပင်၊ ရမည်းသင်းမြို့အရှေ့ဘက် တောင်တန်း ရွှေမြင်တင်ဘုရားတွင် တစ်ပင် စသည်ဖြင့် ပထမပျိုးသော ဗောဓိပင် ၃၂ ပင်အား မြန်မာပြည်ရှိ သမိုင်းဝင် တန်ခိုးကြီးဘုရားများတွင် ဤသို့ စိုက်ပျိုးခဲ့ပါသည်။

ၚင်းအပြင် ရေတာရှည်မြို့၊ ဓာတ်တော်ဘုရားကြီးတွင် တစ်ပင်၊ ရေတာရှည်အရှေ့ဘက် ၆ မိုင်အကွာ စစ်တောင်းမြစ်၏ အရှေ့ဘက်ကမ်း ကရင်ချောင်းရွာရှိ ရွှေပြည်အေးဘုရားကြီးတွင် တစ်ပင်၊ ရေတာရှည်မြို့နယ် နဂျပ်ရွာရှိ လောကမာရ်အောင် ဘုရားကြီးတွင် တစ်ပင်၊ ရေတာရှည်မြို့နယ်၊ ပိတောက်ကုန်းရွာ၏အရှေ့ဘက် တစ်မိုင်ခန့်အကွာ တောင်တန်းပေါ်ရှိ ရွှေမြင်တောင်ဘုရားတွင် တစ်ပင်၊ သံတောင်မြို့နယ် သမိတိုက်ဒိုင်နယ် မဏ္ဍပ်တောင်ရွာအနီးရှိ ဘုရားကြီးတွင် တစ်ပင်၊ ငှက်ပျောတော ကျေးရွာရှိ ကိုးတောင်ပြည့်ဘုရားတွင် တစ်ပင်၊ ညောင်လေးပင်မြို့ပေါ်တွင် ဒေါ်စစ်ရာပင့်ဆောင်သွားခဲ့သော ဗောဓိပင်တစ်ပင်၊ ဒိုက်ဦးမြို့က ကံဦးကျောင်းဘုရားအနီးတွင် တစ်ပင်၊ ကျိုက်ထိုမြို့နယ် ကျိုက်ထီးရိုးဘုရားအနီး နတ်တောင်ပေါ်တွင်တစ်ပင်နှင့် လင်းလွန်းပင် တစ်ပင်စသည်တို့ကို စိုက်ပျိုးခဲ့ပါသည်။

## မယ်ဒက်ဆရာတော်ဘုရားကြီးကိုယ်တိုင်အုတ်မြစ်ချ၍ တည်ထားခဲ့သော ဘုရားများ

၁၈၈၇ ရေတာရှည်မြို့နယ်၊ နဂျပ်ရွာ၏ အနောက်တောင်ဘက် နှစ်ဖာလုံခန့်အကွာ ရှိသော တောင်ထိပ်ပေါ်၌ လောကမာရ်အောင် ဘွဲ့အမည်နှင့်တစ်ဆူ၊ ၎င်းဘုရား၏ တောင်ဘက် တစ်ဖာလုံခန့်အကွာ ဝက်ပါတောင်ဟု သမုတ်ပြီး လောကနန္ဒာဘွဲ့ အမည်နှင့် ဂူဘုရားတစ်ဆူ၊ တောင်ငူမြို့အရှေ့ဘက်၊ တောင်တန်းပေါ်ရှိ ဥမင် ကျောက်ဂူပေါ်၌ ဘုရားတစ်ဆူ၊

တစ်ဖန် အေဒီ ၁၈၈၇ ၊ အောက်တိုဘာလ ၄ ရက်၊ အင်္ဂါနေ့ (သက္ကရာဇ် ၁၂၄၉ ခုနှစ် သီတင်းကျွတ်လဆုတ် ၃ ရက်နေ့) ဦးတင့်တယ် နတ်ကွန်း၏ အနောက် ဘက်တွင် တစ်ဆူစသည်ဖြင့် တည်ထားခဲ့ပါသည်။

ဆရာတော်ဘုရားကြီးသည် တပည့်များကိုစေလွှတ်၍ တည်ထားခဲ့သော ဘုရားများမှာ ပုပ္ပါးမြို့ အရှေ့ဘက် ဦးတင့်တယ် နတ်ကွန်းအနီးတွင် အောင်ချမ်းသာဘွဲ့အမည်နှင့် တစ်ဆူ၊ ရေတာရှည်မြို့နယ် အနောက်ဘက် မိုင် ၂၀ အကွာရှိ ရေငန်ကြီးရွာ၏ တောင်ဘက် တစ်ဖာလုံခန့်ဝေးသော တောင်ထိပ်ပေါ် စေတီတစ်ဆူနှင့် ဗောဓိပင်တစ်ပင် စသည်တို့ဖြစ်ကြသည်။

## ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေးခြင်း

၁၉၄၃ ဤကဲ့သို့ မြန်မာပြည်အနှံ့အပြားတွင် ဘုရားစေတီများတည်ခြင်း၊ မဟာဗောဓိ ပင်များ စိုက်ပျိုးခြင်း တရားဘာဝနာများ အားထုတ်ခဲ့သော မယ်ဒက်ဆရာတော် ဘုရားကြီးသည် သက်တော် ၇၅ နှစ်၊ ၅၅ ဝါ၊ အေဒီ ၁၉၄၃ မေလ ၁၀ ရက်၊ တနင်္လာနေ့ (၁၃၀၅ ခု၊ ကဆုန်လဆန်း ၇ ရက်) ညနေ (၆း၅၀)တွင် ဘဝနတ်ထံပျံလွန်တော်မူသည့်အခါ သီလ၊ သမာဓိ၊ ပညာတန်ခိုးကြောင့် မပုပ်မသိုးဘဲရှိပါသည်။

ထို့ကြောင့် သီလ၊ သမာဓိ၊ ပညာတန်ခိုးကြောင့် မပုပ်မသိုးဘဲရှိနေသော မယ်ဒက်ဆရာတော်၏ နေ့စဉ်ကျင့်ဝတ်နှင့် ကျင့်စဉ်များကို စေ့စေ့ငငသိလိုသဖြင့် ရှာဖွေပြန်ရာ အောက်ပါအတိုင်း ဖတ်ရှုရပြန်ပါသည်။



**မယ်ဒက်ဆရာတော်ဘုရားကြီး၏ နေ့စဉ်ကျင့်ဝတ်ပဋိကတ်များ**

၁။ လဆန်းတစ်ရက်မှ ရှစ်ရက်နေ့အထိ ဆားနှင့် ဆွမ်းမျှသာ ဘုဉ်းပေး သုံးဆောင်တော်မူပြီး ဒါယကာမများအား ဖူးမြော်ကန်တော့ခြင်းမပြုစေခြင်း။

နေ့စဉ်နံနက် ခြောက်နာရီနှင့် ခုနစ်နာရီ အကြားတွင် ဘုရားဝတ်တက်၍ မဟာဗောဓိပင်များကို ရေသွန်းလောင်းပြီး သတ္တဝါများအားလုံးကို အမျှပေးဝေခြင်း။

၂။ ခုနစ်နာရီမှ ကိုးနာရီအကြားတွင် ဒါယကာများကို တရားများအားထုတ်ရန် ဆိုဆုံးမခြင်း။

၃။ ကိုးနာရီမှ တစ်ဆယ့်နှစ်နာရီအကြားတွင် ဆွမ်းဘုဉ်းပေးတော်မူခြင်း၊ ရေမျှား သုံးသပ်တော်မူခြင်း။

၄။ တစ်နာရီမှ သုံးနာရီအတွင်း ဂူအောင်းပြီးလျှင် ကမ္မဋ္ဌာန်းတရားများကို အားထုတ်တော်မူခြင်း။

၅။ ညနေ လေးနာရီမှ ငါးနာရီအကြားတွင် အဋ္ဌဒိသာရှစ်မျက်နှာအရပ်သို့ ကိုယ်တိုင်လှည့်လည်ပြီး ပရိတ်မေတ္တာများ ပို့သခြင်း။

၆။ ငါးနာရီမှ ခြောက်နာရီအထိ ဒါယကာများကို တရားဟောပြောဆိုဆုံးမခြင်း။

၇။ ခြောက်နာရီမှ ဆယ်နာရီအထိ ပုတီးစိပ်ပြီးလျှင် ပရိတ်မေတ္တာဘာဝနာ ကမ္မဋ္ဌာန်း စီးဖြန်းပွားများခြင်း။

၈။ နံနက် နှစ်နာရီမှ ခြောက်နာရီ မေတ္တာပို့။

ဤသည်တို့မှာ ရေတာရှည် မယ်ဒက်ဆရာတော်ဘုရား၏ ထေရုပ္ပတ္တိရုပ်ပုံလွှာနှင့် ဆရာတော်ကြီး နေ့စဉ်ကျင့်ဝတ်၊ ကျင့်စဉ်သော့ချက် မေတ္တာပို့ ဆုတောင်းများဖြစ်ပါသည်။

(ကျမ်းကိုး ၁။ အထက်အချက်အလက်များကို ရေတာရှည်မြို့ မယ်ဒက်ဂေါပကအဖွဲ့ နာယက ဦးတင်ဝင်းကိုယ်တိုင် ဥယျောဇဉ်ရေးသားအပ်သော ၁၉၈၀ မတ်လ ၃ ရက်၊ ရက်စွဲပါစာနှင့် တကွ ၁၃၄၁ ခု၊ သီတင်းကျွတ်လဆန်း ၁၅ ရက်၊ အဘိဓမ္မာနေ့တွင် ရေးသားခဲ့သော ဦးပညာ၏ ဆုတောင်းပြည့် မယ်ဒက်စေတီတော်သမိုင်းကို ယက္ကန်း စင်တောင်ဆရာတော် ဦးဩဘာသ ကိုယ်တိုင် ကြွပ်မတ်ကြီးကြပ်တည်းဖြတ်သည့် စာအုပ်မှရရှိခြင်းဖြစ်သဖြင့် အတုယူလောက်သည်ဟု ယူဆ၍ အထူးကိုးကားဖော်ပြ အပ်ပါသည်။) (ကျမ်းကိုး ၂။ မောင်ပန်းမွှေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၁၅)၊ ၁၁-၇-၂၀၀၅။)

### ဓာတ်တော်များ တဖွားဖွားကျတော်မူသော

# မူလ မင်းကွန်းဆရာတော် အရှင်နာရဒ

## (သထုံဇေတဝန် ဆရာတော်)

**ခအေဒီ ၁၈၆၉ – ၁၉၅၄ (၁၂၃၀ – ၁၃၁၆)**





လွန်ခဲ့သော နှစ်ပေါင်း ၅၀ ကျော် ၆၀ လောက်က ဘာသာရေးလောကတွင် အလွန်ထူးခြားသော အံ့ဖွယ်ဖြစ်ရပ်တစ်ခု ဖြစ်ခဲ့ဖူးလေသည်။

၁၉၅၅ ထိုဖြစ်ရပ်မှာ ယခုတိုင် ပြောမဆုံးပေါင် ဖြစ်ရလေသည်။ ဖြစ်ပုံမှာ ၁၃၁၆ ခု တပေါင်း လဆုတ် ၁၀ ရက် (၁၈ မတ်လ ၁၉၅၅ ) သောကြာနေ့တွင် သက်တော် ၈၆ နှစ် ဝါတော် ၆၆ ဝါ အရွယ်တွင် ပျံလွန်တော်မူသော မူလ မင်းကွန်းဆရာတော် အရှင်နာရဒ (သထုံဇေတဝန်ဆရာတော်)ကြီးကို မီးသင်္ဂြိုဟ်ရာ ခန္ဓာတော်အရပ်ရပ်မှ ကြွင်းကျန်ခဲ့သော ဓာတ်တော်များမှာ ၃- ကွမ်းစား ၃- ပြည်မျှ ပမာဏာ ရှိမည်ဟု ခန့်မှန်းကြပါသည်။ ထို့ကြောင့်ပင်လျှင် အရှင်မြတ်ကြီး၏ ဂုဏ်သတင်းသည် မြန်မာပြည်နယ် နိမိတ်ကိုကျော်၍ သာသနာ့ဂုဏ်ရောင် ထွန်းပြောင်ခဲ့ပေသည်။

မီးသင်္ဂြိုဟ်ရာ ရုပ်ကလာပ်မှ ကြွင်းခဲ့သော သရီရဓာတ်တော်များကို အသီးသီး ပင့်ယူပူဇော်ကြသည်တွင် သထုံမြို့ ဇေတဝန်ကျောင်းတိုက် မီးသင်္ဂြိုဟ်ဌာနၥ်၊ ဓာတ်တော်ဆူရေပေါင်း ၁၀၀၀ ကျော်နှင့်တကွ၊ သက်န်း သပိတ် စသော အသုံးအဆောင်များကိုပါ၊ ဌာပနာ ထည့်သွင်း၍ မင်းကွန်း ဓာတုစေတီတော် တည်ထားကိုးကွယ်ပြီး ဖြစ်လေသည်။

(ကျမ်းကိုး၊တောင်တွင်း ဘိက္ခု အရှင်တိက္ခာစာရ၊ ဇေတဝန်ဆရာတော် ဘုရားကြီး၏ ထေရုပ္ပတ္တိ၊ ပထမအကြိမ်၊ ပုံနှိပ်ခြင်း၊ ၁၉၅၆ ခု၊ ဗမာ့ခေတ် ပုံနှိပ်တိုက်၊ စာ ၁၇၇)

ဓမ္မတာလမ်းစဉ်ကိုကျော်လွန်သော ရုပ်ကလာပ်တော်ကို ခိုင်မြဲရန်အနေနှင့် ဆေးထိုးခြင်း၊ ဝမ်းခွဲ၍ထုတ်ယူခြင်း၊ ပြဒါးသွင်းခြင်း အလျှင်းပင် မပြုလုပ်ကြပါ၊ ပကတိအတိုင်းသာ ထားရှိသည်ကို ဤစာရေးသူလက်ပူးလက်ကြပ် အမြကပ်ကာ အလောင်းတော်ကို တာဝန်ယူ၍ စောင့်ခဲ့သူဖြစ်၍ ရဲရဲကြီးဝန်ခံပါသည်ဟု မူလမင်းကွန်း ထေရုပ္ပတ္တိပြုစုသူက ရေးသားထားကြောင်း ဖတ်ရှုရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ - ၁၀၈)

၁၉၅၄ ကျေးရွာရှင် ဆရာတော်ကြီး၏ ရုပ်အလောင်းတော်သည် ဖောင်းပွပုပ်သိုးခြင်းမရှိ ပကတိသဘောအတိုင်း တည်ရှိခဲ့သဖြင့် အေဒီ ၁၉၅၄ ဧပြီလ ၆ ရက်၊ အင်္ဂါနေ့ (၁၃၁၆ ခုနှစ် တန်ခူးလဆန်း ၃ ရက်နေ့ ) နံနက် ၈ နာရီအချိန်ခန့်၌ ခေါင်းတော်တွင်းသို့ ဖွဲပြာများအပြည့်နှင့်လျက် ထည့်သွင်းကာ သံဂဏ်အူ၊ မူလီများနှင့် တွဲစပ်ပိတ်ဖုံးကြပါသည်။ ၉ ရက်ကြာပြီးသောအခါမှာလည်း မပုပ်မသိုးဘဲရှိနေပေသည်။

ထို့အခါ အလောင်းတော် ရုပ်ကလာပ်ကို ဖူးခွင့်မရကြသူတို့က ဆန္ဒမပြည့်ဘဲရှိရာ ဖွင့်ပွဲပြုလုပ်ကြပြန်ရာ၊ ကံအားလျော်စွာ ရုပ်ကလာပ်အလောင်းတော်သည် ဖောက်ပြန်တော်မမူဘဲ ထားမြဲတိုင်းအတိုင်း အံ့ဖွယ်တည်ရှိနေသဖြင့် သလွန် ညောင်စောင်းပေါ်သို့ ပြောင်းရွှေ့ကာ အများဖူးတွေ့နိုင်ရန် အစီအစဉ်ပြုလုပ်၍ ထားရှိပြန်ပေသည်။

၁၉၅၄ အေဒီ ၁၉၅၄ ဧပြီ ၁၆ ရက်၊ သောကြာနေ့ (၁၃၁၆ ခုနှစ် တန်ခူးလဆန်း ၁၃ ရက်နေ့) နေ့လယ် ၁ နာရီ ၂၅ မိနစ် အချိန်၌ အလောင်းတော် ရုပ်ကလာပ်ထားရှိရာ သလွန်တော်၏ ဝဲယာ၌ လူအများ ဖူးမြော်လျက်ရှိစဉ် ၅ ပေခန့် ရှည်လျားသော မြွေတစ်ကောင်သည် တောင်အရပ်မှတက်လာကာ လူအများ၏ အကြား၌ တိုးဝင်လျက် အလောင်းတော်ရှိရာဘက်သို့ ဦးလှည့်ကာ အလောင်းတော်ရှိရာ စင်မြင့်သလွန်ထက်သို့တက်ရောက်ကာ အလောင်းတော်၏ခြေရင်းမှာ ရပ်တည်လျက်ခေါင်းလည် တငြိမ့်ငြိမ့်နှင့် ဦးနှိမ်၍ချလေသည်။ ဤအခြင်းအရာများကို ရဟန်းရှင်လူအများပင်



တွေ့မြင်ရရုံမျှမက၊ ဓာတ်ပုံဆရာထံသို့သွားရောက်ခေါ်ယူကာ၊ ဓာတ်ပုံဆရာသည် မြွေဖူးမြော်ပုံများစွာကို ရိုက်ကူးခဲ့လေသည်။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၁၁)

အလောင်းတော်ကို ဖူးမြော်သောမြွေသည် ၁ နာရီ မိနစ် ၂၅ ခန့်မှ တက်လာပြီး၊ ၂ နာရီ မိနစ် ၅၀ ခန့်မျှ ကြာခဲ့လေသည်။ ထိုအချိန်၌ တစ်ခဲနက်လာသော လူထုကြီးသည် အလောင်းတော် ရုပ်ကလပ်ကို ဖူးမြော်ရန်ထက် မြွေကိုသာ အာရုံကျလျက် သူ့ထက်ငါ အလု အယက်တိုးဝှေ့ကာ ကြည့်ရှုကြသည်ကို ပြော၍ပင် ယုံနိုင်ဖွယ်မရှိ၊ ကြိတ်ကြိတ်တိုး စည်ကား လျက်ရှိလေသည်။ ဤသို့လျှင် ရုပ်အလောင်းတော်ကို မြွေဖူးမြော်လာသည်ဟူသော သတင်းကား အဆင့်ဆင့်ပြောကြသဖြင့် ပြန့်ပွားခဲ့လေသည်။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၀၉)

ဝင်းမြွေသည် အလွန်ထူးဆန်း၏။ နံဘေးနှစ်ဖက်၌ အကွက်ကွက် ဆက်စပ်သော အပြောက်ငယ် ကလေးများနှင့် ငွေရောင်၊ ရွှေရောင်၊ မြရောင်၊ ဖလ်ရောင်ရောလျက် ပြောင်လျှပ်သော အကွက်များဖြင့် နှစ်သက်ဖွယ်သော အဆင်းများနှင့် အလွန် လှပတင့်တယ်သော မြွေသတ္တဝါတစ်မျိုးဖြစ်လေသည်ဟု ဆိုကြပါသည်။

မြွေသတ္တဝါသည် ထိုနေ့ ၂ နာရီ ၄၅ မိနစ်အချိန်အခါ၌ အလောင်းတော် ရုပ်ကလာပ်ဆင်ယင်၍ ထားအပ်သော ကြာကလပ်ပေါ်မှဆင်းခဲ့ပြီး လှည်းဘီးများတပ်ဆင်ထားသော တလားယာဉ်ပေါ်သို့ ကူးတက်သွားသည်ကို လူအများ ဝိုင်းအုံ၍ကြည့်ကြလေသည်။ အချို့လူများမှာ မြွေတက်ရာ တလားပေါ် သို့တက်၍ ရှာသော်လည်း မြွေကိုမတွေ့ရတော့ချေ။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၁၁)

၁၉၅၄ အေဒီ ၁၉၅၄ ဧပြီလ ၁၇ ရက်၊ စနေနေ့ (၁၃၁၆ ခုနှစ် တန်ခူးလဆန်း ၁၄ ရက်နေ့ ညနေ ၄ နာရီ အချိန်ခန့်၌ ရုပ်ကလာပ်အလောင်းတော်ကို စံကျောင်းပေါ်မှ ပင့်ယူကာ လှည်းဘီးများတပ်ဆင်ထားသော တလားပေါ်သို့ တင်ကြလေသည်။ နေရာတကျ တင်၍ပြီးသော်၊ လူအများ တလားပေါ်မှ အားလုံးဆင်း၍ပြီးသောအချိန်၌ ယခင် တစ်ရက်မှ ကြိုတင်၍တင်နေသော မြွေသတ္တဝါသည် လူအများတက်စဉ်က မတွေ့ မြင်ရသော်လည်း လူအားလုံးဆင်း၍ ပြီးသောအချိန်၌ ပေါ်ထွက်လာပြီး အလောင်း တော်ရုပ်ကလာပ်၏ မျက်နှာရှိရာအနီးသို့ ချဉ်းကပ်၍အလောင်းတော်၏ တောင်ဘက် ဘေးမှနေပြီး အထက်ပိုင်း ကိုယ်တစ်ဝက်ခန့်ထောင်လျက် မျက်နှာတော်တည့်တည့်ကို ရှုကြည့်ကာ ခေါင်းလည်တော် တငြိမ့်ငြိမ့်နှင့် ဦးတင်ကာ ဖူးမြင်သော ပမာကဲ့သို့ အခါခါယိမ်းနွဲ့လျက်နေသည်ကို ဤစာရေးသူနှင့်တကွ အများရှေ့၌ အားလုံးမျက်မြင် ဖြစ်ကြပါသည်။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၁၁)

ဤသို့ဖြင့် ၂၁ ရက်တိုင်တိုင် မပုပ်မသိုး တစ်မျိုးအားဖြင့် တင့်တယ်လျက် ကျိန်းစက်နေဟန် ဖောက်ပြန်ခြင်းမရှိ၊ ပကတိသော အသွေးအသားတော်တို့နှင့် ခိုင်မြဲလှပါသော ဆရာတော်ကြီးအား နောက်ဆုံးပူဇော်သောအားဖြင့် ဖူးကြ ဖူးကြဟု ရင်ထုမနာသော အသံတော်တို့ဖြင့် မိန့်ဆိုကာ မျက်ရည် တော်လည်ရှာလေနေတော့သည်ဟု မှတ်တမ်းတွင်ဖတ်ရပါသည်။

**ဝင်းနောက် မင်းကွန်းဇေတဝန်ဆရာတော်ကြီး၏ အထက်တန်းတပည့်ကြီးဖြစ် သော မိတ္ထီလာ တောင်ပုလုဆရာတော်သည် နောက်ပါတပည့်သံဃာတော်များ နှင့် လူဒါယကာများပါ ကြွရောက်လာခဲ့လေသည်။**

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၁၃)



ထို့အချိန်၌ သူပုန်များ သထုံခရိုင်၌ အတော်ပင်လှုပ်ရှားလျက်ရှိရာ ဈာပနပွဲ၌ စစ်တပ်က တာဝန်ယူ၍ စောင့်ရှောက်နေရပေ၏ဟု သိရပါသည်။

၁၉၅၅ ၈ ရက်နေ့ နံနက် ၇ နာရီအချိန်၌ မီးသင်္ဂြိုဟ်မည်ဟူ၍ ကြေညာကာ၊ နောက်နေ့ဖြစ်သော အေဒီ ၁၉၅၅ ခု၊ ဧပြီလ ၂၉ ရက်၊ သောကြာနေ့ (၁၃၁၇ ခု ကဆုန် လဆန်း ၈ ရက်နေ့) နံနက် ၇ နာရီ အချိန်၌ ကြိုတင်စီမံထားသော နံ့သာထင်းပုံထက်သို့ ရုပ်ကလာပ်အလောင်းတော်ကို ရဟန်းရှေလူပါ များစွာသော လူထုပရိသတ်များဖြင့် ပင့်ဆောင်တင်ရှိကာ မီးသင်္ဂြိုဟ်ကြလေသည်။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၁၇)

လူအများစု ဆန္ဒသဘောကျ မီးသင်္ဂြိုဟ်ကြရာ ထူးဆန်းလှသော ဈာပနမီးပုံကြီး ပတ်လည်၌ အရပ်ရှစ်မျက်နှာမှကြွလာကြသော ရဟန်းတော်များနှင့် လူထုပရိသတ်ကြီးကား အပြည့်သားတည်ရှိနေလေသည်။ ထူးခြားသောလက္ခဏာကား လူထုများစွာ ဝိုင်းရံကာလျက်ရှိသော အလောင်းတော်ကို မီးသင်္ဂြိုဟ်သော အခမ်းအနားကို အောက်ပါအတိုင်းဖတ်ရှုရပါသည်။

မီးပုံကြီးသည် အငွေ့အသင်း နံခြင်းမရှိဘဲ အလောင်းတော်မှာလည်း ကုံးကွတွန့်လိမ်မှု မတွေ့ရ မူလထားရှိတိုင်းသာလျှင် ယိမ်းယိုင်ခြင်းမရှိ၊ ခိုင်ခိုင်တောင့်တင်း အလျင်းပင် မရွေ့လျားဘဲ မီးစွဲ၍လောင်ကျွမ်းလေသည်။ မီးပုံကြီးအတွင်းမှ ထွန်းဖောက်၍ တက်လာသော တပြောင်ပြောင်တဝင်းဝင်းနှင့် အရောင်အဆင်းတို့ကား ထူးထူးဆန်းဆန်း အံ့မခန်းဘဲ လှပသော အဖြူရောင်၊ အပြာရောင်၊ အဝါရောင်၊ အညိုရောင်၊ ခိုရောင်၊ အစိမ်းရောင်၊ နီမြန်းသောအရောင်တွေ ရောယှက်လျက် ထွက်လာလေရာ ကြည်နူးကြေကွဲ ဝမ်းနည်းဖွယ်ရာ အဖြာဖြာတို့ဖြင့် တန်ဆာဆင်အပ်သော၊ တိမ်တောင်တိမ်ခဲကြီးပမာ ပန်းချီဆရာများသော်မှ ပုံတူးရေးကူးရန် မလွယ်လှသော သဘာဝကျသည့် ဈာပန မီးပုံကြီး၏ ရှုမငြီးတင့်တယ်ဟန်ကို ဤစာရေးသူနှင့် အများ၏မျက်မြင် အားလုံးကုန်ပင် တွေ့မြင်ကြရလေသည်ဟူ၍ ကျမ်းပြုဆရာက ဝန်ခံရေးသားထားကြောင်း ဖတ်ရှုရပါသည်။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၁၆)

၁၉၅၅ မီးသင်္ဂြိုဟ်ရာ ရုပ်ကလာပ်မှ ကြွင်းကျန်သော သရီရဓာတ်တော်များကို အသီးသီးပင့်ယူပူဇော်ကြသည်တွင် သထုံမြို့ ဇေတဝန်ကျောင်းတိုက် မီးသင်္ဂြိုဟ် ၁၃၁၆ ခု တပေါင်းလဆုတ် ၁၀ ရက် (၁၈ မတ်လ ၁၉၅၅ )သောကြာနေ့တွင် သက်တော် ၈၆ နှစ်၊ ဝါတော် ၆၆ ဝါ အရတွင် ပျံလွန်တော်မူသော ဌာန၌ ဓာတ်တော် ဆူရေပေါင်း ၁၀၀၀ ကျော်နှင့်တကွ သင်္ကန်းသပိတ်စသော အသုံးအဆောင်တော် များကိုပါ ဌာပနာထည့်သွင်း၍(မူလမင်းကွန်းဓါတုစေတီ)တော်တည်ထားကိုးကွယ်ပြီးဖြစ်ကြလေသည်။

ခန္ဓာတော်အရပ်ရပ်မှ ကြွင်းကျန်ခဲ့သော ဓာတ်တော်များမှာ ၃ ကွမ်းစား၊ ၃ ပြည်မျှ၊ ပမာဏ ရှိမည်ဟု ခန့်မှန်းရပါသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊တောင်တွင်း ဘိကျွ အရှင်တိက္ခာစာရ ဇေတဝန်ဆရာတော် ဘုရားကြီး၏ ထေရုပ္ပတ္တိ၊ ပထမအကြိမ်၊ စာမျက်နှာ- ၁၇၇)

## အီတလီ ဘုန်းတော်ကြီး ဦးလောကနာထ လာရောက်ပူဇော်ခြင်း

မင်းကွန်းဆရာတော်ကြီးမှာ ရဟန္တာဟု ကျော်ကြားလျက်ရှိ၍ ဟိုမှ ဒီမှ လာဖူးကြသူများ အလွန်များပြားသည်ဟု သိရပါသည်။ အီတလီဘုန်းတော်ကြီး ဦးလောကနာထသည်လည်း အများနည်းတူ



ရဟန္တာအရှင်ဟု သက်ဝင်ယုံကြည်ကာ လာရောက်၍ သပိတ်တစ်လုံး သုံးထည်သော သင်္ကန်း၊ လှူဒါန်းဖွယ် ဝတ္ထုများဖြင့် လှူဒါန်းကာ ဘန်ကောက်မြို့မှ ဘန်ကောက်သူ ကျောင်းဒါယိကာမကြီး တစ်ယောက်လည်း ဘန်ကောက်ပိုးသင်္ကန်းများဖြင့် ရဟန္တာအရှင်မြတ်ကြီးဟူ၍ ယုံကြည်စွဲမှတ်သော စိတ်ဓာတ်ဖြင့် လှူဒါန်းပူဇော် ဖူးမြော်လာရောက်ခဲ့လေသည်။

(မေး) ရဟန္တာများ ပရိနိဗ္ဗာန်ပြုပြီးရင် အလောင်းတော် ရုပ်ကလပ်ဟာ ပုတ်ပါသလားဘုရား။

(ဖြေ) ပုပ်တာပေါ့။

(မေး) အချို့ မပုပ်ဘူးဆိုတာ၊ ဘယ်လိုပါလဲ ဘုရား၊

(ဖြေ) အဓိဋ္ဌာန်ပဲ၊ အဓိဋ္ဌာန်ရှိရင်မပုပ်ဘူးဟူ၍ ဤသို့မေးလျှောက်မှုများကို ဖြေကြားရာ ဒါယကာများလည်း အလိုက်သိစွာ ဖယ်ခွာသွားကြလေသည်။

## မင်းကွန်းဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိ

၁၈၆၈ ဆရာတော်ကြီးသည် သထုံဇေတဝန်ဆရာတော်ဟု လူသိများသော်လည်း ဇာတိမှာ စစ်ကိုင်းခရိုင် ကန်ကြီးကုန်းရွာ ဇာတိဖြစ်၏။ အဖမှာ ဦးညို ဖြစ်၏အမိမှာ ဒေါ်ပိုင်းတို့ ဖြစ်ကြ၏။

အေဒီ ၁၈၆၈ ဇန်နဝါရီလ ၁၆ ရက်၊ စနေနေ့ (သက္ကရာဇ် ၁၂၃၀ ပြည့် တပို့တွဲလဆန်း ၅ ရက်) စနေနေ့ ညနေ ၆ နာရီတွင် ဖွားမြင်တော်မူသည်။ ငယ်နာမည်မှာ မောင်သာပျော့ဖြစ်၏။

(ကျမ်းကိုး၊တောင်တွင်း ဘိက္ခု အရှင်တိက္ခာစာရ ဇေတဝန်ဆရာတော် ဘုရားကြီး၏ ထေရုပ္ပတ္တိ၊ ပထမအကြိမ်၊ စာမျက်နှာ- ၁၇၇)

၁၈၇၆ မောင်သာပျော့သည် အေဒီ ၁၈၇၆ခု၊ (၁၂၃၈ ခုနှစ်) အသက် ၈ နှစ်သားအရွယ်တွင် ကျောက်ပန်း၊ ကန်ကြီးကုန်းရွာနှစ်ရွာကြား၌တည်ရှိသော စောကဲကျောင်းဆရာတော်၏ ကျောင်းတွင် ကျောင်းသား ကလေးဘဝနှင့် စာသင်ကြားခဲ့ကြောင်းသိရပါသည်။

၁၈၈၂ အေဒီ ၁၈၈၂ ခု ( ၁၂၄၄ ခုနှစ်) ၁၄ နှစ်သား အရွယ်သို့ ရောက်သောအခါ ရှင်သာမဏေ ဝတ်တော်မူကြောင်းသိရသည်။ ဘွဲ့တော်မှ ရှင်နာရဒဖြစ်ကြောင်း သိရပါသည်။

၁၈၈၅ ရှင်နာရဒ အေဒီ ၁၈၈၅ ခု၊ (၁၂၄၇ ခုနှစ် ) သက်တော် ၁၇ / ၁၈ နှစ် အရွယ်သို့ ရောက်သောအခါ မိဘနှစ်ပါးကွယ်လွန်သွားကြသဖြင့် လူဝတ်လဲခဲ့ကြောင်းသိရပါသည်။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၁)

၁၈၈၈ အေဒီ ၁၈၈၈ ခု၊ ( ၁၂၅၀ ခုနှစ်)တွင် တစ်ဖန် အသက် ၂၀ အရွယ်တွင် ရှင်သာမဏေ ပြန်လည်ဝတ်ခဲ့ ပြန်ကြောင်းသိရပါသည်။

ထိုအချိန်က မန်ကျည်းစု တောရကျောင်း ဆရာတော် ဦးလက္ခဏထံသို့ ရောက်ရှိ၍ ရှင်သာမဏေ ပြန်လည်ဝတ်ကြောင်းသိရပါသည်။

၁၈၈၇ သီပေါမင်းပါတော်မူပြီးနောက် ( ၂ ) နှစ်ခန့်အကြာတွင် ထိုဆရာတော် ဦးလက္ခဏ ကိုပင် ဥပဇ္ဈာယ်ပြု၍ ကျောက်ပနရွာ ဦးပေါစ၊ ဒေါ်တံဇာတို့၏ ပစ္စယနုဂ္ဂဟဖြင့်



ရဟန်းအဖြစ်သို့ ရောက်တော်မူကြောင်း သိရသဖြင့် ထိုနှစ်သည် မြန်မာ ၁၂၄၉ ခုနှစ်၊ ခရစ်သက္ကရာဇ် ၁၈၈၇ ခု ဖြစ်ကြောင်းသိရပါသည်။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၇)

ဘွဲ့တော်မှာ အရှင်နာရဒပင်ဖြစ်လေသည်။ ရဟန်းဖြစ်ပြီးနောက် မင်းကွန်းတောင်ပေါ် ကျောင်းတိုက် ဆရာတော် ဦးရာဇိန္ဒ ထံသို့ ရောက်ရှိ၍ ပညာများဆက်လက်သင်ကြားတော်မူကြောင်း သိရပါသည်။ ၎င်းနောက် မန္တလေးမြို့အနောက်ပြင် မိုးကောင်းတိုက် ဒက္ခိဏဝန်တိုက်၊ မြတောင်တိုက်၊ ရွှေတောင်မြို့ ဝေဠုဝန်ကျောင်းတိုက် စသည်တို့၌လည်း ပညာဆည်းပူးခဲ့သေးကြောင်း သိရှိပါသည်။

၎င်းနောက်မင်းကွန်းတောင်ပေါ်ကြီးကျောင်း ဆရာတော်ဦးရာဇိန္ဒထံသို့ ပြန်လည်ရောက်ရှိခဲ့ပြန်ကြောင်းသိရပါသည်။ ထို့နောက် စာပေများပို့ချကာ သာသနာပြုခဲ့ပါသေးသည်၊ ထိုစဉ်က ရဟန်းသိက္ခာ (၅)ဝါ (၆)ဝါလောက် ရှိပြီးဖြစ်ကြောင်းသိရပြန်ပါသည်။

**ထူးခြားသည်မှာ ထိုသို့ ရဟန်းဘဝနှင့် စာပေများ သင်ကြားပို့ချပေးနေစဉ် ကာလအတွင်းမှာပင် ရဟန်းဘဝကို မပျော်မမွေ့ပြန်သဖြင့် တစ်ဖန် လူထွက်ခဲ့ ပြန်ကြောင်း အံ့စဖွယ် လေ့လာတွေ့ရှိပါသည်။ ထိုသို့ လူထွက်ခြင်းသည် ဒုတိယအကြိမ်ဖြစ်ပါသည်။ ပထမအကြိမ် လူထွက်စဉ်က အသက်အရွယ် ၁၇ နှစ် ၁၈ နှစ် လောက် ရှိခဲ့ပါသည်။**

ပို၍ထူးဆန်းသည်မှာ လူဘဝသို့ရောက်ခဲ့ပြန်သော်လည်း လူ့ဘောင်လောကတွင် မပျော်မွေ့ ပြန်သဖြင့် တစ်ဖန် ရှင်သာမဏေဘဝမှ ရဟန်းဘဝသို့ နောက်တစ်ကြိမ် ပြန်လည်ရောက်ရှိခဲ့ကြောင်း သိရပြန်ပါသည်။ ဤသည်မှာ ရဟန္တာဟု ကျော်ကြားတော်မူသော မူလ မင်းကွန်းဆရာတော်ကြီး၏ ထူးခြားဖြစ်စဉ် ဘဝအဆစ်အကွေ့များပင်ဖြစ်လေသည်။

၁၉၀၅ အေဒီ၁၉၀၅ ခု၊ (၁၂၆၇ ခုနှစ်) သက်တော် ၃၇ နှစ် အရွယ်သို့ ရောက်သောအခါမှစ၍ အရှင်နာရဒ မထေရ်သည် မင်းကွန်းတောင်ရိုးရှိ လူသူမနီးသော နေရာများတွင် (ဧကစာရ)တစ်ပါးတည်းနေပြီးလျှင် သတိပဋ္ဌာန် တရားတော်မြတ်အလုပ်ကို အားထုတ် ကျင့်ကြံခဲ့ကြောင်းသိရပါသည်။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၃၁)

၁၉၁၅ အရှင်နာရဒမထေရ်သည် မိမိ၏ ချက်မြှုပ်ဇာတိဖြစ်သော ကန်ကြီးကုန်းရွာနှင့်တကွ ကညွတ်ကုန်း၊ မြို့လှ၊ သထုံမြို့ မေဃဝန်ကျောင်းတိုက်တို့ သာသနာပဋ္ဌောတိက ကျောင်းတိုက် စသည်တို့တွင်လည်း သီတင်းသုံးတော်မူ၍ သတိပဋ္ဌာန် တရားတော်မြတ် ကို ပြန်လည်ဟောကြား တော်မူခဲ့ကြောင်းသိရပါသည်။

၎င်းနောက် သထုံဇေတဝန် ကျောင်းတိုက်ကြီးကို အလှူခံတော်မူ၍ တရားဟောပြတော်မူ ခဲ့ပြန်လေသည်။ ထိုကျောင်းတိုက်ကြီးမှာ ၅ ဧကခန့် ကျယ်ဝန်းသော ကျောင်းတိုက်ကြီးဖြစ်လေသည်။

## တောင်ပုလုဆရာတော်နှင့် မဟာစည်ဆရာတော်တို့ တပည့်လာခံခြင်း

**ထို့သို့ သထုံ ကညွတ်ကုန်း၊ မြို့လှ၊ သထုံမြို့ ဇေတဝန်ကျောင်းတိုက်ကြီးတွင် သီတင်းသုံးတော်မူနေစဉ် နောင်သောအခါ ရဟန္တာမြတ်အဖြစ် ကျော်ကြားတော် မူသော မိတ္ထီလာတောင်ပုလုဆရာတော်သည်လည်းကောင်း၊ နောင်သောအခါ မဟာစည်ဆရာတော်ကြီးအဖြစ် ကမ္ဘာအနှံ့ ဟိုးဟိုးကျော်စောတော်မူသော်**



အရှင်သောဘနဆရာတော်သည်လည်းကောင်း ရောက်ရှိလာပြီးဖြစ်လျှင် သတိပဋ္ဌာန် တရားကျင့်ကြံနည်းများကို နည်းယူကျင့်ကြံခဲ့ကြောင်းသိရှိရပါသည်။

ကျေးဇူးရှင် ဆရာတော်ကြီးသည် ပေဋကော ပဒေသအဋ္ဌကထာကျမ်းကို ရေးသားစီရင်ရာ၌ နှုတ်ထဲတွင် အာဂုံဆောင်၍ ရေးသားစီရင်ခဲ့ရာ ၄ နှစ်ခန့် ကာလတိုင်ပင် နှုတ်တွင်ဆောင်လျက် မနှစ်သက်ရာ ပုဒ် - ပါဌ် အက္ခရာ ဝါကျများကိုပါ သုတ်သင်ရှင်းလင်း စင်ကြယ်စေရန် အဖန်ဖန် စိစစ်တော်မူခဲ့ပြီး စိတ်တိုင်းကျ အလိုပြည့်ဝမှ စာရွက်ပေါ်တင်၍ စီရင်ရေးခဲ့သည်ဟု ကျေးဇူးရှင်အဋ္ဌကထာဆရာမြတ်ကြီးကိုယ်တိုင် မိန့်ကြားတော်မူခဲ့လေသည်။ ကျေးဇူးရှင် ဆရာတော်ကြီးသည် ဝီရိယနှင့် ဉာဏ်စွမ်းတော်ကို ထုတ်ဖော်ပြောပြ ဆုံးမရအောင် အနန္တဂုဏ်တော်ရှင်ကြီးဖြစ်ပါပေသည်။

၁၉၂၄ ဤအဋ္ဌကထာကျမ်းကြီး ပြီးစီးသော နှစ်မှာ ၁၉၂၄ (ကောဇာသက္ကရာဇ်ကား ၁၂၈၆)ခု ဖြစ်၏။

၁၉၂၄ ပုံရိုက်ပြီးစီးသော ခုနှစ်မှာကား၊ အေဒီ ၁၉၂၆ (၁၂၈၈)ခု ဖြစ်၍ ရေးသောကာလနှင့်ပြီးစီးသော ကာလမှာ ၄ နှစ်ခန့်ကြာ၍ သက်တော် ၅၂ နှစ်လောက်မှစ၍ ရေးသားစီရင်သည်ဟု သိရပါသည်။

## ရသေ့ကြီး ဦးခန္တီကျောက်ထက်အက္ခရာတင်ခဲ့ခြင်း

ဤသို့ ပေဋကောပဒေသ အဋ္ဌကထာ ပါဠိကျမ်းကြီးကို စာမျက်နှာ ၄၁၇ မျက်နှာရှိ ၄ နှစ်ခန့်ကြာမျှ စိတ်တိုင်းကျ စိစစ်ဝေဖန် အတန်တန် သုတ်သင်ပြင်ဆင်၍ စက်တင်ပုံနှိပ်ပြီး အသီးသီးသော တိုင်းပြည် မြို့ရွာများသို့ ဝေငှရာ မန္တလေးတောင် ရသေ့ကြီးဦးခန္တီ ကြားသိတွေ့ရှိသောကြောင့် ကျမ်းပြုဆရာတော်ထံ ကျောက်စာထွင်းလုပ် ကျောက်ထက် အက္ခရာတင်ထားရန် လျှောက်ထားတောင်းပန်၍ သာသနာ ၅၀၀၀ တည်တံ့ခိုင်မြဲအောင် ကျောက်ထက်အက္ခရာတင်၍ စန္ဒာမုနိဘုရား၌ ၂၈-ချပ်မျှသော ကျောက်ချပ်များပေါ်ဝယ် အက္ခရာရေးတင်၍ စိုက်ထူခဲ့လေသည်။

## ပြုစုခဲ့သော ကျမ်းများ

ရဟန္တာအရှင်မြတ်ကြီးဟု ထင်ပေါ်ကျော်ကြားခဲ့သော မူလမင်းကွန်း ဇေတဝန်ကျောင်းတော်ကြီး ရေးသားစီရင်ခဲ့သောကျမ်းများမှာ အောက်ပါအတိုင်းဖြစ်၏

(၁) ပေဋကောပဒေသ အဋ္ဌကထာပါဌ် ၊ (၂) ၎င်း အဋ္ဌကထာ၏ နိဿျ ပထမတွဲ၊ (၃) ၎င်း အဋ္ဌကထာ၏ နိဿျ ဒုတိယတွဲ၊ (၄) ၎င်း အဋ္ဌကထာ၏ နိဿျ တတိတွဲ၊ (၅) သဋ္ဌေတာဝိဓိ ဝိသဇ္ဇနာ၊ (၆) အာရမ္ဘာဝိဓိ ဝိသဇ္ဇနာ၊ (၇) ဝိသုဒ္ဓိမဂ် အဋ္ဌကထာ နိဿျသစ်၊ (၈) တောလေးဆယ်ဖွင့်၊ (၉) မိလိန္ဒပဉှာအဋ္ဌကထာပါဌ်၊ (၁၀) နိဗ္ဗနကထာ (စကားပြေ)၊ (၁၁) နိဗ္ဗာန်လမ်းညွှန်ဒေသနာ၊ (၁၂) နိဗ္ဗနစာတမ်း၊ (၁၃) သတိပဋ္ဌာနစာတမ်း၊ (၁၄) သတိပဋ္ဌာနေခေါ်ဝိနိစ္ဆယသမ္မဟ၊ (၁၅) ကထိနဝိနိစ္ဆယ (စကားပြေ)၊ (၁၆) ကထိန်နိဿျ၊ (၁၇) ဖလသမာပတ်၊ (၁၈) မဟာသဠာယတနသုတ် နိဿျ၊ (၁၉) မူလပရိယာယသုတ် နိဿျ၊ (၂၀) ပါဒါပါဒရဟ ဝိနိစ္ဆယ၊ (၂၁) ပဋိညာတ ကရဏ ဝိနိစ္ဆယ၊ (၂၂) သိမ်ခဏ်း၊ (၂၃) ဝိပဿနာ ဉာဏ်စဉ်ကျမ်းကြီး၊ (၂၄)အနုသယဆိုင်ရာ၊ (၂၅) အတိရိတ်ပြုပုံအဆုံးအဖြတ်

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၂၁)

၁၉၅၅ အေဒီ ၁၉၅၅ ခု ၊ မတ်လ ၁၈ ရက်၊ သောကြာနေ့ (၁၃၁၆ ခု တပေါင်းလဆုတ် ၁၀ ရက် )တွင် သက်တော် ၈၆ နှစ်၊ ဝါတော် ၆၆ ဝါ အရတွင် ပရိနိဗ္ဗာန်ပြုခဲ့ပါသည်။

(ကျမ်းကိုး ၊ ယင်းကျမ်း စာ - ၁၀၇)



(ကျမ်းကိုး၊ တောင်တွင်းဘိက္ခု၊ အရှင်တိက္ခာစာရ၊ အဌကထာကျမ်းပြု ကျေးရွာရှင် မူလမင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ၊ ဒုတိယအကြိမ် ၁၉၉၂ခု၊ ဩဂုတ်လ၊ ဟံသာဝတီစာအုပ်တိုက်)

ကျမ်းကိုး ။ ။ အထက်ပါ ဆောင်းပါးမှာ - မသိသူကျော်သွား၊ သိသူဖော်စား၊ ကျွန်တော်ဆက်ရေး ချင်သော ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ ပေါင်းချုပ်ကြီး မူလမင်းကွန်းဇေတဝန် သထုံဆရာတော် ဘုရားကြီး (၁) အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၂၉၊ ၁၇-၁၀-၂၀၀၅ တွင် ပါခဲ့ပြီး ဖြစ်ပါသည်။ မူလ မင်းကွန်းဇေတဝန် သထုံဆရာတော် ဘုရားကြီး (၂ ) အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၃၀၊ ၂၄-၁၀-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

သထုံမင်းကွန်း ဇေတဝန်ဆရာတော်သည် ဉာဏ်ပညာနှင့် လုံ့လဝီရိယ အားကောင်းသူဖြစ်သည် နှင့်အညီ နိကာယ် ၅ရပ် ပိဋကတ်သုံးပုံကို ချောက်ချားအောင် တတ်မြောက်တော်မူ၏။ တိုက်အုပ်တာဝန် နှင့် စာပေပို့ချသည့် တာဝန်တို့ကို နှစ်များစွာ ထမ်းရွက်ပြီးနောက် သက်တော် ၃၇ နှစ်တွင် သတိပဋ္ဌာန် ကျင့်စဉ်ကို မဆုတ်မနစ် အားထုတ်တော်မူရာ ၃နှစ်ကြာသည့်အခါ 'ဘူတံဘူတတောပဿတိ' အရှိကို အရှိတိုင်း မြင်သိလျက် မဂ်ရောက်ဖိုလ်ဝင် ဉာဏ်အမြော်အမြင်ရတော်မူခဲ့၏။

ထို့နောက် 'သွား သွားတယ်မှတ်၊ ရပ် ရပ်တယ်မှတ်၊ ထိုင် ထိုင်တယ်မှတ်၊ လျောင်း လျောင်း တယ်မှတ်' ဟူသော သတိပဋ္ဌာန်တရားတော်ကို နယ်လှည့်ကာ ဟောကြားပြသရင်း နောက်ဆုံး၌ သထုံမြို့ မင်းကွန်းဇေတဝန်ကျောင်းကို ထူထောင်တော်မူသည်။ ဤကျောင်း၌ သတိပဋ္ဌာန်ကျောင်း အားထုတ် နည်းကို ဟောကြားပြသနေစဉ် မဟာစည်ဆရာတော် လောင်းလျာဖြစ်သည့် ဦးသောဘနနှင့် မော်လ မြိုင်မြို့ ပေါက်ဝ သတိပဋ္ဌာန် ဆရာတော်လောင်းလျာဖြစ်သော ဦးပဏ္ဍဝတို့ လာရောက်ကာ နည်းနာခံယူ ပြီး အားထုတ်ကြ၏။

**ဆရာတော် ဦးနာရဒသည် တပည့်ကြီး ဦးမေဓာဝီ လျှောက်ထားသဖြင့် မိမိ နောက်ဘဝ ဆက်ရန်မရှိတော့ဟု ဖြေကြားတော်မူခဲ့၏။**

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘဝဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီဂီပုံနှိပ်တိုက်၊ စာ ၉၉-၁၀၀)

၁၉၅၄ ၁၃၁၆ ခုနှစ် သီတင်းကျွတ်လတွင် 'တို့ ဒီနှစ်မလွန်တော့ဘူး' ဟု မိန့်တော် မူပြီး ထိုနှစ် တပေါင်းလဆုတ် ၁၀ရက်၊ သက်တော် ၈၆ နှစ်တွင် ပရိနိဗ္ဗာန်ပြုတော်မူ၏။

**တန်ခူးလဆန်း ၇ ရက်နေ့၌ သာသနာရေးဝန်ကြီး ဦးဝင်း၊ ဗမာ့ခေတ် ဦးအုန်းခင်နှင့်အဖွဲ့ဝင်များ ရောက်ရှိလာကြပြီး၊ ခေါင်းတော်ကို ဖွင့်စေရာ ရုပ်ကလာပ်တော်သည် ဖောက်ပြန်ခြင်းမရှိဘဲ ထားမြဲတိုင်းသောသဘောဖြင့်သာ တည်နေသည်ကို အံ့ဩစဖွယ်ဖူးမြင်ကြရသည်။ ထိုအခါ အလောင်းတော်ကို သလွန်ညောင်စောင်းထက်သို့ ပြောင်းရွှေ့ကာ ပရိသတ်တို့အား ဖူးမြော်ခွင့်ပြု သည်။**

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘဝဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီဂီပုံနှိပ်တိုက်၊ စာ ၁၀၀ )

# သေက္ချတောင် ဆရာတော် ဦးတိလောက

## ဧအဒိ ၁၈၇၁ – ၁၉၃၁ ( ၁၂၃၃ – ၁၂၉၃ )





အလွန်ထူးဆန်းသောကိစ္စဖြစ်သည်။ သည်လို ဖွဲ့မျိုး တစ်ခေတ် တစ်ယောက်ပေါ်ခဲ့သည်။ ရှေးအခါက လျှပ်စစ်မီး မတွင်ကျယ်သေး။ တောရောမြို့ပါမန့်သေး။

ထိုအခါတွင် ရေနံဆီမီးခွက်နှင့် စာကြည့်ရကြောင်း၊ ထိုအခါ ရေနံဆီခဏခဏ လဲရသောဒုက္ခ၊ ထိုဒုက္ခအပေါင်းမှ ကင်းဝေးရန်အတွက် ရေနံဆီပုံးကြီးတွင် မီးစာအကြီးကြီး ထည့်ကာ စာကြည့်ခဲ့သော ပုဂ္ဂိုလ်တစ်ယောက်ပေါ်ပေါက်ခဲ့ဖူးကြောင်း။ ထိုပုဂ္ဂိုလ်မှာ အခြားမဟုတ် သေက္ခတောင်ဆရာတော်ဟု ဟိုးဟိုးကျော်ခဲ့ လယ်တီဦးတိလောက ဖြစ်လေသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၃၁၆-၃၁၇)

ဦးတိလောကသည် လယ်တီဆရာတော်ဘုရားကြီး၏ ဉာလက်ရုံးတစ်ဆူဖြစ်ကြောင်း မုံရွာခရိုင်၊ ယင်းမာပင်မြို့နယ် 'ခေါသန္တိ' ကျေးရွာကြီးဇာတိဖြစ်ကြောင်း။ ရှေးအခါက 'ပန်းချီတိုက်' ဟု ခေါ်ခဲ့ကြကြောင်း၊ ထိုပန်းချီရွာသား ဦးတိလောကသည် နောင်သောအခါဝယ် ပဏ္ဍိတဝေဒနိယ ဒီပနီကျမ်းကြီးကို ပြုစုခဲ့သဖြင့် ကျမ်းပြုဆရာပေါင်းတို့ ရှိသေလေးစားခြင်းခံရသော ပုဂ္ဂိုလ်ကြီးဖြစ်ခဲ့ကြောင်းသိရပါသည်။

၁၈၇၁ ပန်းချီတိုက်၊ ခေါသန္တိရွာကြီးတွင် အေဒီ ၁၈၇၁၊ အောက်တိုဘာလ ၂၁ ရက်(သက္ကရာဇ် ၁၂၃၃ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၉ ရက်) စနေနေ့ ညနေ သုံးချက်တီးအချိန်တွင် ဖွားမြင်ကြောင်းသိရသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၃၁၄)

အေဒီ (၁၂၃၃ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၉ ရက်) စနေနေ့ နေတက်ဖွားတည်းဟူ၍ ဆိုပါသည်။

(လယ်တီ ဦးလှပိုင်၊ ပခန်းသာသနာဝင်၊ စာ ၊ ၂၇၂ )

(မှတ်ချက်) စာတစ်ခုက ညနေ သုံးချက်တီးအချိန်ဟု ဆိုပါသည်။ စာတစ်ခုက နေတက်ဖွားဟုဆိုပါသည်။ အထက်ပါအချက်ကို ဖော်ပြခဲ့ပါပြီ။

ဆရာတော် ဦးတိလောကသည် ခေါသန္တိရွာမှာ သူ၏ မွေးဇာတိ ဖြစ်ကြောင်းကို ပဏ္ဍိတဝေဒနိယဒီပနီကျမ်းနိဂုံး၌ ဖော်ပြထားသည်ကိုတွေ့ရပါသည်။ ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါ၏။ အမှန်ဖြစ်ပါ၏ဟု ဆိုသင့်ပါသည်။

'ခေါသန္တိ နာမတော၊ နိဗ္ဗာန်သဖွယ်၊ အကင်စင်စစ်၊ ချမ်းသာသော ရွာဖြစ်ခြင်းကြောင့် ခေါသန္တိ ဟု အမည်ရှိသော ဂါမေရွာမြတ်၌ တေတ္တိံဒွေကသာသမို သက္ကရာဇ် ၁၂၃၃ ခု၊ တန်ဆောင် မုန်းလဆန်း ၉ ရက်၊ စနေနေ့ ညနေ သုံးချက်တီး အချိန်၌ အဟံ ငါသည် သုနိဗ္ဗယော ကောင်းစွာ ဘေးကင်းလျက် အမိဝမ်းတွင်းမှဖွားမြင်၏'ဟု ဖော်ပြခဲ့သည်ကို တွေ့ရပါသည်။

(ကျမ်းကိုး၊ သေက္ခတောင်ဆရာတော် ဦးတိလောက ပဏ္ဍိတဝေဒနိယဒီပနီကျမ်း၊နိဂုံး)

အမိ အဖ အမည်ကို ဖော်ပြနိုင်ရန် စုံစမ်းလျက်ရှိပါသည်ဟု ဆရာကြီးလယ်တီ ဦးလှပိုင်က မိမိ၏ လယ်တီဂန္ထဝင်ကျော်များ သမိုင်းကို ဖော်ပြခဲ့ပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၃၁၄)

ဓမ္မာစရိယ ဦးဌေးလှိုင်၏ ကျမ်းတွင် ဦးတက်ဖြိုး၊ ဒေါ်သီတို့မှဖွားမြင်၏။ အဖ သူဌေးမျိုး၊ အမိ မင်းဆွေစိုးမျိုးဟုဆိုပါသည်။

(ကျမ်းကိုး၊ ဦးဌေးလှိုင်၊ စာ ၄၆၂)



ငယ်မည်မှာ မောင်ထွန်းဝ ဖြစ်သည်ဟု သိရပါသည်။ မွေးချင်းများရှိခဲ့၏။ ကိုပေါလှ၊ မအေးမြိုင်၊ မအေးခိုင်တို့ဖြစ်သည်။ ယခုတိုင် ဆရာတော်မျိုးနွယ်များ ခေါသန္တိကျေးရွာတွင် ရှိသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ တင်မြင့်၊ ဗန်ကျီကို လှမ်းပါလို့ ပခန်းကို ဝင်ခဲ့တယ်၊ စာပေဗိမာန် စာမူ ဆုရ ၁၉၉၁ ခု၊ စာပဒေသ ပထမဆု၊ ၁၉၉၃ ခု၊ ပထမအကြိမ်၊ ဧပြီလ၊ စာ ၁၇)

၁၈၉၁ အေဒီ ၁၈၉၁ ခု၊ ဇူလိုင်လ (၁၂၅၃ ခုနှစ်တွင် နယုန်လ)တွင် ငှက်ပျောတောဆရာတော် ဦးဇဝနအား ဥပဇ္ဈာယ်ပြု၍ ပဉ္စင်းဖြစ်လေသည်။ ဦးဇဝနသည် တိပိဋကပုဂ္ဂိုလ်ထူးဖြစ်သည်ဟုဆိုပါသည်။

(ကျမ်းကိုး၊ ဦးဌေးလှိုင်၊ စာ ၄၆၃)

၁၈၉၁ အေဒီ ၁၈၉၁ ဇူလိုင်လ (၁၂၅၃ ခုနှစ်၊ ဝါဆိုလ)တွင် ပညာရှာဖွေရန်ထွက်ခဲ့ရာ လယ်တီဆရာတော်ဘုရားကြီးရှိရာ မုံရွာသို့ ထိုနှစ်ထိုလတွင် ရောက်ခဲ့ကြောင်း သိရလေသည်။

လယ်တီသို့ ရောက်သောအခါ ဦးတိလောကသည် ပဒရူပသိဒ္ဓိ၊ သဒ္ဒနီတိ စသော ဗျာကရုဏ်းကျမ်းကြီးများနှင့်တကွ ပိဋကသုံးပုံ၊ နိကာယ်ငါးရပ်တို့ကို သင်ကြားခဲ့လေသည်။ ထိုသို့သော အချိန် အခါတွင် ဦးတိလောကသည် နေ့ ည မပြတ် လေ့လာခဲ့ရာ ကျမ်းပေါက်ခဲ့လေသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၃၁၆)

၁၈၉၂ အေဒီ ၁၈၉၂ ခု၊ ၁၂၅၄ ခု၊ ရဟန်းတစ်ဝါ ရလျှင် ပရိတ္တဋီကာသစ်ပ၄်ကိုရေးသည်။

၁၈၉၃ အေဒီ ၁၈၉၃ခု၊ ၁၂၅၅ ခု၊ နှစ်ဝါရသော လယ်တီဆရာတော်ထံသို့ ရောက်၍ ပိဋကနိကယ်အစုံ ချောက်ချားတတ်မြောက်သည်။

၁၈၉၆ အေဒီ ၁၈၉၆ ခု၊ ၁၂၅၈ ခု၊ ရဟန်း ငါးဝါ အရတွင် နေက္ခမဝိဓါနဒီပနီကျမ်းကို စီရင်သည်ဟူ၍သိရပါသည်။

(လယ်တီ ဦးလှပိုင်၊ ပုခန်းသာသနာဝင်၊ စာ ၊ ၂၇၄ )

ထိုစဉ်အခါက လယ်တီတိုက်ကျောင်းကြီးမှာ ဝါးကာကျောင်းမျှသာရှိသေးသည်။ ဝါးမိုးကျောင်းမျှသာရှိသေး၏။ ဦးတိလောကသည်လည်း ထိုသို့သော ဝါးမိုးဝါးကာ ကျောင်းတွင်ပင် သီတင်းသုံးခဲ့ရလေသည်။

၁၈၉၆ ထိုခေတ်အချိန်အခါက (အေဒီ ၁၈၉၆ ခု) ရေနံဆီမီးအိမ်ဟူ၍ပင် မရှိသေးချေ။ လက်စွဲမီးအိမ်ရှုးရှုး များကိုသာ အသုံးပြုကြလေသည်။ ထိုမီးအိမ်ကို ပုဏ္ဏားဆီမီးအိမ်ဟု ခေါ်ကြကြောင်းသိရပါသည်။ ဦးတိလောကသည်လည်း ထိုပုဏ္ဏားဆီမီးအိမ်ကိုပင် နေ့စဉ်နေ့စဉ် ပွတ်တိုက်ပြင်ဆင်၍ စာကြည့်ရလေသည်။

ညအခါ ပေစာတို့ကို ကြည့်ဆဲ၊ ကြည့်၍ကောင်းတုန်း မီးစာကုန်ဆီခမ်း ဖြစ်ရပြန်လေသည်။ ထိုဒုက္ခကို ဦးတိလောကသည် သည်းမခံနိုင်ချေ။ စာထဲတွင် စျာန်ဝင်နေသဖြင့် ပုဏ္ဏား ဆီမီးအိမ်၏ ခရီးမတွင်မှုကို သည်းမခံနိုင်ဖြစ်လာလေသည်။ ထို့ကြောင့် ရေနံဆီပုံးကြီးတစ်ခုကိုရှာ၏။ ရေနံဆီအပြည့်ထည့်၏။ ပြီးတော့ ထောင့်တစ်ထောင့်မှာ အပေါက်ကြီးတစ်ပေါက် ဖောက်လိုက်လေသည်။ သက်န်းကိုဆုတ်၏။ လက်ညှိုးခန့်ကြီးသော မီးစာကြီးတစ်ခုပြုလုပ်ကာ အသုံးပြုလေသည်။ ထိုသို့သော ရေနံဆီပုံးကြီးဖြင့် ညလုံးပေါက် စာကြည့်ခဲ့ကြောင်းသိရပါသည်။



ဆရာတော်သည် ညအခါ အိပ်စက်ခြင်းမရှိသလောက်နည်းသဖြင့် ရက်တွေ လတွေ ကြာလာသောအခါ ဦးတိလောက၏ မျက်လုံးအစုံတို့သည် မျက်စိဝေဒနာစွဲကပ်လာကြောင်း၊ ပေစာထုပ်မှ ရေနံခိုးမိခြင်းကလည်း ဒုက္ခဖြစ်၏။ ရေနံဆီပုံးကြီး၏ မီးအရှိန်ကလည်း အလွန်ပြင်း၏။ ထို့ကြောင့် မျက်စိဝေဒနာစွဲကပ်လာခြင်းဖြစ်လေသည်။

သို့သော်လည်း ဦးတိလောကသည် စိတ်မပျက်ချေ။ စာကိုကြည့်မြဲကြည့်၏။ တိပိဋကပုဂ္ဂိုလ် ဖြစ်၏။ သို့သော်လည်း မျက်လုံးနှစ်ဖက်တို့မှာနီရဲလာ၏။ ကျီးအာသီးများ မှည့်၍လာသကဲ့သို့ နီရဲ၍ လာ၏။ ထိုသို့သော မျက်စိဝေဒနာကြီး စွဲကပ်လာသော်လည်း စာကြည့်မြဲကြည့်၏။ ထိုအခါ အလွန်သနားဖွယ်ကောင်း၏။ အံ့ဩဖွယ်လည်းကောင်း၏။ မျက်လုံးနှစ်ဖက်လုံးမှလည်းကောင်း၊ နှာခေါင်းဝမှလည်းကောင်း သွေးများယိုစီး၍ ကျလာသည်ဟုပင်ဆိုကြပါသည်။

ထိုသို့သော သတင်းဆိုးကြီးကို (ဝါ) ထိုသို့သော သတင်းကောင်းကြီးကို ကျေးဇူးရှင် လယ်တီဆရာတော်ကြီး ကြားသိရသောအခါ အံ့ဩလျက်ဝမ်းသာ ဝမ်းနည်းဖြစ်မိသော်လည်း ဦးတိလောက၏ ဇွတ်တရွတ် ဝါသနာကို ချွတ်မှဖြစ်မည်ဟု ဆိုပြီးလျှင် လယ်တီ ဆရာတော်ဘုရားကြီး၏ အမိန့်စာဟုဆိုကာ အမိန့်တော်ထုတ်ကာ ဦးတိလောက၏ အနီးမှာရှိသော 'ကမ္ဗလွေ' စာထုပ်များကို တစ်ထုပ်မကျန် ယူသွားကြကြောင်း တစ်ထုပ်တလေကျန်လျှင် ခိုး၍စာကြည့်မည်စိုးရိမ်ရသေးသဖြင့် 'တစ်ခုမကျန်အမြန် သိမ်းဆည်း၍ ငါ့ထံယူခဲ့ရမည်'ဟု လယ်တီဆရာတော် ဘုရားကြီးက တင်းတင်း ကြပ်ကြပ် အမိန့်ထုတ်လိုက်လေသည်။ လယ်တီဆရာတော်ကြီး၏ အမိန့်ဖြစ်သဖြင့် မည်သူမျှ တင်း၍မခံနိုင်ချေ။

ဦးတိလောကသည်လည်း 'ကမ္ဗလွေ' စာထုပ်များမရှိသဖြင့် စာမကြည့်ရတော့ချေ။ သို့သော်လည်း မျက်စိဝေဒနာကား သက်သာ၍လာသည် မဟုတ်ချေ။ ထို့ကြောင့် တရားစကားဘက်သို့လှည့်ရသည်။ သူ့ထံသို့ ဘယ်သူ လာလာ၊ ဝမ်းမြောက်ဝမ်းသာဖြင့် တရားဟောလေ့ရှိသည်။ ဤသို့ဖြင့် လတွေ ရက်တွေ ကြာညောင်းလာသောအခါမှာ မျက်စိဝေဒနာက ပျောက်ကင်းခဲ့ကြောင်း၊ သို့သော်လည်း လယ်တီဆရာတော်ကြီး၏ အမိန့်အရ အချိန်မှန်မှန်စာကြည့်ရုံမှ တစ်ပါး ယခင်ယခင်က ကဲ့သို့ ရေနံဆီပုံးကြီးတွင် မီးစာကြီး အကြီးကြီးတပ်ကာ ကြည့်ခွင့်မရတော့ကြောင်း၊ စာကိုလည်း အချိန်များစွာ ကြည့်ခွင့်မရတော့ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၃၁၆၊၃၁၇)

ထိုသို့သော ကာလများတွင် ဦးတိလောကသည် 'ငါသည် ပရိယတ္တိလုပ်ငန်းကြီးကို စိတ်ကျေနပ် လောက်အောင် ပြုလုပ်ခဲ့လေသည်။ ယခုအခါကား ပဋိပတ္တိလုပ်ငန်းကြီးကိုသာ ကြိုးစားအားထုတ်၍ လုပ်ရပေတော့မည်'ဟု စိတ်ဆုံးဖြတ်လိုက်လေသည်။

ထို့ကြောင့် တိကျပြတ်သားလှသော တိပိဋကပုဂ္ဂိုလ်ဖြစ်သော ဦးတိလောကသည် ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးကို ကန်တော့ပြီးနောက် လယ်တီတိုက်ကို စွန့်ခွာလျက် တောထွက်သွားကြောင်း။ ရဟန်းအပေါင်းတို့အားလည်း

'ငါ့ရှင်တို့ ငါသည်တား မုံရွာလယ်တီတိုက်သို့ တစ်ဖန်ပြန်၍လာခဲ့သည်ရှိသော် မြေပြင်ခရီးမှ ခြေလျှင်လာတော့မည်မဟုတ်'ဟု အတိအလင်း ကြွေးကြော်ခဲ့ကြောင်း။ အမိပ္ပာယ်မှာ တောထွက်ပြီးနောက် ဈာန်တရားကို အား



**ထုတ်၍ ဈာန်ရပြီးမှသာလျှင် အဘိဉာဉ်တန်ခိုးဖြင့် မြေလျှိုးမိုးပျံမည် ဟူသော သဘောပြောဆိုပါသည်။**

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၃၂၀)

မုံရွာမြို့၊ လယ်တီဆရာတော်ဘုရားကြီးကျောင်းတွင် ဦးတိလောက ရောက်ရှိလာပုံအကြောင်း ထိုဝါးကျောင်းကလေးတွင် နေစဉ်ကာလမှာ ဦးတိလောကသည် အသက် ၂၅ နှစ် ရှိပြီဖြစ်ကြောင်း။ ထိုအသက် ၂၅ နှစ်အရွယ်ကတည်းကပင် ပိဋကတ်သုံးပုံ ပင်လယ်ကြီးကို အပြန်ပြန်အလှန်လှန် ကူးခတ်ခဲ့ကြောင်း၊ ညလုံးပေါက်စာကြည့်သောအခါ ရေနံဆီ ပေပါပုံးကြီးကို မီးစာတပ်၍ စာကြည့်ခဲ့ကြောင်း၊ မျက်လုံးများယောင်ကိုင်းလာသဖြင့် လယ်တီဆရာတော်ဘုရားအမိန့်နှင့် စာမကြည့်ရန် တားမြစ်ခဲ့ကြောင်း ဦးတိလောက,က ဈာန်ပျံနိုင်မှ လယ်တီသို့ပြန်လာမည် ကြုံးဝါးကာ တောထွက်သွားကြောင်း ဖော်ပြခဲ့ပြီး ဖြစ်ပါသည်။

(ကျမ်းကိုး၊ မောင်ပန်းမွေး အချစ်ဂျာနယ်)

ဤတွင် ဖော်ပြရန် အကွက်တစ်ကွက်ကျန်နေပါကြောင်း။ ထိုအကွက်ကို ဖတ်လိုက်လျှင် ဦးတိလောကသည် အဘယ်သို့သော ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်ဖြစ်သည်ကိုလည်းကောင်း၊ အသိထူး အမြင်ထူး ရှိသော ပုဂ္ဂိုလ်ဟုတ်မဟုတ်ကိုလည်းကောင်း၊ ရိပ်စားမိနိုင်လောက်ပါကြောင်းသိရပါသည်။

'ဦးတိလောကသည် မျက်စိရောဂါဖြင့် စာမကြည့်ရ၊ စာမနာရစေကာမူ ရောက်လာသူများအား ထ၍မရအောင် တရားဖိ၍ ဟောပြောနေပြန်ကြောင်း၊ စင်စစ်ထိုအချိန်ကား စာပေပရိယတ္တိကို လိုလေသေးမရှိလေ့လာပြီးလျှင် တောထွက်ရန် အရှိန်ယူနေခိုက်ဖြစ်၍ နေက္ခမ္မဓာတ် (တောထွက်လိုသော ဆန္ဒများ)တက်ကြွနေချိန်ဖြစ်ကြောင်း ပရိယတ္တိမှ ပဋိပတ္တိသို့ ကူးပြောင်းမည့် ဆဲဆဲဖြစ်ကြောင်း၊ မျက်စိရောဂါလည်းမကြာမီ လုံးဝပျောက်ကင်းသွားကြောင်း။

ရွှေပင်နား ရွှေကျေးဟူသကဲ့သို့ လယ်တီဆရာတော်ဘုရားကြီးနှင့် လက်ပွန်းတတီး နေရသူဖြစ်၍ ဆရာတော်၏ ဓာတ်များလည်း ကူးစက်နေပုံရကြောင်း လေးထောင့်သံဖြူပုံး မီးခွက်ကြီးနှင့် စာကြည့် စာရေးသည်မှာ ဆရာတော်လည်း ထို့အတူဖြစ်၍ အာဂသာသနာ့ဂုဏ်ဆောင် ရဟန်းထူးကြီးများ ဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

**လယ်တီဆရာတော်ကြီးကား နောက်ကာလတွင် မီးတိုင်ပင် မထွန်းညှိရတော့ဘဲ မျက်လုံးတော်အစုံမှ ထွက်ပေါ်သည့် အလင်းရောင်ဖြင့် ညအခါ စာရေးကြောင်း သိရှိရပါသည်။**

(ကျမ်းကိုး၊ မန္တလေးမြို့၊ ပလိုင်းရပ်၊ စက်ဆရာ ဦးဘထွန်းဆိုသူ ဆရာတော်ထံ၌ သာမဏေဘဝဖြင့် နေရစဉ်မြင်တွေ့ခဲ့ရသည်ဟု ဆရာစန္ဒြကတစ်ဆင့် ပြောပြဖူးကြောင်း လေ့လာတွေ့ရှိရပါသည်။ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ နဝမအကြိမ်၊ စာ ၄၆၃)

မည်သို့ပင်ဖြစ်စေ ဦးတိလောကသည် ဆရာတော်၏ ပရိယတ် အရည်အချင်းများကို သာမက ပဋိပတ်အရည်အချင်းများကိုပါ အတွင်းကျကျ ရိပ်စားသိရှိနေပြီဖြစ်သည်ဟု ယူဆရကြောင်း မျက်စိရောဂါဖြစ်ခြင်းနှင့် စာအုပ်စာတမ်းများ၊ အသိမ်းအဆည်းခံရခြင်းနှင့် ပဋိပတ်ကမ္မဋ္ဌာန်းအလုပ်ကို အားထုတ်တော့ဟု သတိပေးလိုက်သကဲ့သို့ ရှိတော့ကြောင်း။



ထိုအချိန်မှစ၍ ကမ္မဋ္ဌာန်းတရား ရှုပွားကြောင်း၊ သက်တော်ကား ၂၅ နှစ်မျှသာရှိသေးသော ဦးတိလောကကား တစ်ဖက်က စာချရင်း ရဟန်းတရားကို ညအချိန်၌ အထူးကြိုးစားတော်မူကြောင်း ထိုခေတ်လယ်တီတောအုပ်တွင် အခြောက်အလှန့်များလှကြောင်း၊ သရဲမကြီးတစ်ဦး ကျောင်းလှေကား၌ မကြာခဏလာရောက်အိပ်နေသည်ဆိုကြောင်း ဓမ္မာစရိယ ဦးဌေးလှိုင်က ပြန်လည်ပြောကြားခဲ့ပါသည်။

ထိုနေ့က မိုးမှောင်ကျသော ညတစ်ညဖြစ်ကြောင်း တစ်တိုက်လုံးအိပ်မောကျနေကြပြီဖြစ်ကြောင်း။ လယ်တီဆရာတော်ဘုရားကြီးအား အတောင် ၆၀ ရှိ စကြံ့ခြေလှမ်းများပင် တန့်ရပ်သွားကြောင်း၊ အကြောင်းမှာ ဦးတိလောကနေသော ကျောင်းကလေးတစ်ဆောင်လုံး အောက်လင်းမီးထွန်းထားသကဲ့သို့ လင်းထိန်နေသည်ကို တွေ့မြင်ရသောကြောင့်ဖြစ်ကြောင်း၊ သုံးလေးရက်ရှိသောအခါ ဆရာတော်သည် ဦးတိလောကအား လူသူရှင်းခိုက်ခေါ်၍ တရားဟောတော်မူရာ 'မောင်တိလောကမင်းလည်း စာသင်၊ စာချနဲ့ ပရိယတ်ဘက်ကတော့ ပြည့်စုံသွားပြီ ခုချိန်ကစပြီး ငါ့ကျောင်းမှာ နေလို့မသင့်တော့ဘူး၊ သွားလိုရာသွားနိုင်တယ်' ဟု မိန့်တော်မူကြောင်း။

ထိုအခါ ဦးတိလောက,ကလည်း မှန်ပါ့ဘုရားဟုသာလျှောက်၍ ဦးချပြီး မိမိကျောင်းကလေးသို့ ပြန်လာခဲ့ကြောင်း ဓမ္မာစရိယ ဦးဌေးလှိုင်က ပြန်လည်ပြောကြားခဲ့ပါသည်။

နောက်တစ်နေ့ သပိတ်တစ်လုံး သုံးထည်သောသင်္ကန်းနှင့် မိမိရေးထားသော နေကွမ္မ ဝိဓာန ဒီပနီ စာမူကိုယူ၍ လယ်တီတိုက်မှထွက်ခွာရန် ကျောင်းကလေးမှ ဆင်းလာခဲ့ကြောင်း ဆရာတော်အား နောက်ဆုံးဝင်ရောက်ကန်တော့လျက် 'တပည့်တော် ဤလယ်တီတိုက်ဆရာတော်ဘုရားထံ ကောင်းကင်က လာနိုင်မှရောက်ပါတော့မည်ဘုရား' ဟုလျှောက်၍ ထွက်ခွာခဲ့ကြောင်း ဓမ္မာစရိယ ဦးဌေးလှိုင်က ပြောကြားခဲ့ပါသည်။

(ကျမ်းကိုး၊ မောင်ပန်းမွေး ၊ အချစ်ဂျာနယ်၊ ဓမ္မာစရိယ ဦးဌေးလှိုင် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ နဝမအကြိမ် ၁၉၉၃၊ စာမျက်နှာ ၄၆၄)

**ဦးတိလောကသည် တရားသမာဓိများ အလွန်ကောင်းနေပြီဖြစ်၍ လယ်တီတိုက်တွင်း ပရိသတ်များအကြားမှာနေလျှင် ယုတ်လျော့သွားမည်စိုး၍ လယ်တီဆရာတော်က ထိုသို့အမိန့်ရှိသည်ကို ဦးတိလော က,က မိမိအား မနေစေချင်၍ နှင်သလောဟု စိတ်ခုသွားကြောင်း လယ်တီဆရာတော်ဘုရားကြီးက ပျော်ဘွယ်ဆရာသက်ကြီးအား တစ်နေ့တွင် ပြောပြဖူးကြောင်းသိရှိရပါသည်။**

(ကျမ်းကိုး၊ အဂ္ဂမဟာပဏ္ဍိတ စာပေပါရဂူ ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးဘဒ္ဒန္တဉာဏဓဇ (၁၈၄၆-၁၉၂၃)၏ တပည့်ရင်း ဖြစ်သူ အနာဂါမ်ဆရာသက်ကြီး (၁၈၇၃-၁၉၄၅) က ထိုအကြောင်းများကို ပြန်လည် ပြောသဖြင့် ဆရာကြီး ဦးဌေးလှိုင်ထံမှတစ်ဆင့်ပြန်လည်သိရှိရသည်။မောင်ပန်းမွေး အချစ်ဂျာနယ် အတွဲ (၄)၊ အမှတ် (၁၆) ၁၈-၇-၂၀၀၅။ ဓမ္မာစရိယ ဦးဌေးလှိုင် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ နဝမအကြိမ် ၁၉၉၃ ၊ စာမျက်နှာ ၄၆၄)

## သေက္ခတောင် ဦးတိလောက၏ မဟာထေရုပ္ပတ္တိရုပ်ပုံလွှာ



၁၈၇၁ ဗန်းကျိုတိုက်အဝင် ဆင်ရှင်စီရင်စု၊ ခေါသန္တိကျေးရွာ (ယခုအခေါ် ပုလဲမြို့နယ်ခေါသန္တိကျေးရွာ)တွင် အေဒီ ၁၈၇၁၊ အောက်တိုဘာ ၂၁ ရက်၊ (မြန်မာသက္ကရာဇ် ၁၂၃၃ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၉ ရက်၊ ညနေ ၃ နာရီတွင် အဖ ဦးတက်ဖြိုး၊ အမိဒေါ်သီတို့မှမွေးဖွား၏။ ငယ်မည်မှာ မောင်ထွန်းဝဖြစ်သည်။

မွေးချင်းများရှိခဲ့၏။ ကိုပေါ်လှ၊ မအေးမြိုင်၊ မအေးခိုင်တို့ ဖြစ်သည်။ ယခုတိုင် ဆရာတော် မျိုးနွယ်များခေါသန္တိကျေးရွာတွင်ရှိကြသည်။

မောင်ထွန်းဝသည် ခေါသန္တိရွာ ဘုန်းတော်ကြီးမှာ ကျောင်းလိုက်၍ သာမဏေပြုသည်။ ထိုစဉ်က ဗန်းကျိုနယ်တွင် စာပေပရိယတ္တိ သင်ကြားပို့ချသော ဆရာတော်များရှိရာ ကျောင်းများသို့ အနီးအပါးမှ စာသင်သားတို့ သွားရောက် ပညာသင်ယူကြရသည်။

ခေါသန္တိရွာ၏ တောင်ဘက် တစ်တိုင်ခန့်အကွာတွင်ရှိသော ငှက်ပျောတောရွာ မြောက်ကျောင်းဆရာတော် ဦးဇဝနထံတွင် စာပေပညာများကိုသင်ယူရသည်။ ထို့နောက် ငှက်ပျောတော တောင်ကျောင်းဆရာတော် ခင်ကြီးဆန်းကို ဥပဇ္ဈာယ်ဆရာပြု၍ ရဟန်းခံခဲ့သည်။ ဘွဲ့အမည် အရှင်တိလောက ဖြစ်ပြီး စာပေပညာများ ဆက်လက်ဆည်းပူးခဲ့သည်။

နှစ်ဝါရသောအခါ စာချဆရာတော်တစ်ပါးဖြစ်လာ၏။ ၅ ဝါ ရသောအခါ နိက္ခမဝိဒါနဒီပနီ ကျမ်းကိုရေး၍ ဆရာသခင်အား ပူဇော်ကန်တော့သည်။ ထို့နောက် မိမိဆရာတော်အား ခွင့်ပန်၍ ကမ္မဋ္ဌာန်းဘာဝနာအလုပ်ကို လုပ်ရန် ချင်းတွင်းမြစ်ညာအရပ်သို့ ထွက်ကြွတော်မူလေသည်။

သို့ရာတွင် တောတောင်စိမ့်စမ်းပေါသော အထက်ချင်းတွင်း အရပ်၌ ငှက်ဖျားထူပြောသဖြင့် တရားမကျင့်နိုင်အောင်ရှိခဲ့သည်။ သို့ဖြစ်၍ ချင်းတွင်း ဧရာဝတီကြောအတိုင်း အောက်ပြည်အောက်ရွာသို့ စုန်တော်မူသည်။

ရန်ကုန်မြို့ ပုဇွန်တောင်ကျောင်း ဆရာတော်ထံတွင် ခေတ္တခိုလှုံနေခဲ့သည်။ ပုဇွန်တောင်ကျောင်းသို့ ဦးတိလောက ရောက်ရှိပုံမှတ်တမ်းကို ပခန်းသာသနာဝင်တွင် ဖတ်ရှုရပါသည်။

> ဦးတိလောကသည် အလယ်တစ်ခွင် တောတောင်အနှံ့ ဧကစာရ အရညဝါသီ နေခဲ့သည်။ သို့သော် ဥတုသပ္ပာယ အမျှတသဖြင့် အောက်ပြည်၊ အောက်ရွာ၊ တောတောင်သို့ ချဉ်းကပ်နေရန် ကြွလာတော်မူရန် နော်မံကျောင်းကြီးတိုက်သို့ရောက်ရှိလာသည်။ ထိုအချိန် ဦးတိလောကအား နော်မံကျောင်းကြီး တိုက်အုပ်စာချပုဂ္ဂိုလ်တို့က ပညာစမ်းကြလေသည်။
>
> ဦးတိလောက မေးလေတိုင်း ဒိုးဒိုးဒေါက်ဒေါက် ရဲရဲတောက် ဖြေစွမ်းပြနိုင်လေသည်။ မဖြေစွမ်းနိုင်ခြင်း မရှိဟူ၍ဖြစ်၏။ ဦးတိလောက,က ပြန်လည်မေးသောအခါ တိုက်အုပ်စာချဆရာတော်တို့ ဖြေဆိုရန်မစွမ်းဆောင်နိုင်ကြတော့ဟူ၍ ထို့ကြောင့် နော်မံကျောင်းကြီးဆရာတော်က
>
> ကိုယ်တော်တို့၊ အညာပခန်းနယ်က ရဟန်းငယ်ကို မစမ်းကြလေနှင့်၊ ပညာဉာဏ်စွမ်း ထက်မြက်လှပေသည်ဟူ၍ မိန့်တော်မူလေသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ ပခန်းသာသနာဝင်၊ စာ ၊ ၂၇၅)

ထိုစဉ်က ဒုတိယ လယ်တီဆရာတော်တော်လောင်းလျာ ရှင်ဉာဏ ဟူ၍ရှိ၏။ နောင်အခါ လယ်တီဆရာတော်က ဘွဲ့ချင်းတူ၍ ရှင်ဉာဏောဘာသဟုမှည့်သည်။ ဦးတိလောကထံရှင်ဉာဏ ထွက်ဝင်



ချဉ်းကပ်၍ အကျွမ်းတဝင်ဖြစ်ကြရာ ဦးဉာဏောဘာသအား -

> ငါ့ရှင် စာတတ်လိုလျှင် လယ်တီတောရကျောင်းသွား၍ လယ်တီအထံ ပညာသင်၊ ဒါမှ ပညာစုံ ဆုံးခန်းတတ်မြောက်မည်

ဟူ၍ ဦးတိလောက ညွှန်ကြားချက်အရ ရှင်ဉာဏောဘာသသည် မကြာမီ လယ်တီတိုက်သို့ ကြွရောက်ပညာသင်၍ နောင်သောအခါ လယ်တီတိုက်အုပ်ဆရာတော် ဖြစ်လာရလေသည်။

(ကျမ်းကိုး။ လယ်တီ ဦးလှပိုင်၊ ပခန်းသာသနာဝင်၊ စာ ၊ ၂၇၅)

အထက်ပါ စာအရ ဦးတိလောက လမ်းညွှန်ချက်အရ ရှင်ဉာဏောဘာသသည် လယ်တီတိုက်အုပ်ဆရာတော်ကြီးဖြစ်လာရကြောင်း မှတ်သားရပါသည်။

ဦးတိလောကသည် နော်မံကျောင်းကြီးတိုက်တွင် တည်းခိုသည်မှာ နော်မံကျောင်းကြီး ဆရာတော်နှင့် ဆက်စပ်ပုံရပါသည်။ ထိုဆရာတော်ကြီးသည် ပန်းချီ(ဗန့်ကျီ) တိုက်နယ်သား ဖြစ်ပေသည်။

(ကျမ်းကိုး။ လယ်တီ ဦးလှပိုင်၊ ပခန်းသာသနာဝင်၊ စာ ၊ ၂၇၂)

သေကျွတောင် ဆရာတော် ဦးတိလောကသည် ရဟန်းပြု ပြီးနောက် စာပေ ပရိယတ္တိ သင်ယူရင်း၊ ကမ္မဋ္ဌာန်း ဘာဝနာစီးဖြန်းရင်း အနားယူသည့်အချိန်များတွင်ယူ၍ နောင်လာ နောင်သားတို့ အတွက် စာပေကျမ်းဂန်များကို ရေးသားပြုစုခဲ့သည်။ ခေါသန္တိကျောင်းဆရာတော် ဦးသုမင်္ဂလာ၏ မှတ်တမ်းအရ ကျမ်းပေါင်း ၁၄ ကျမ်းပြုစုတော်မူခဲ့သည်။

(ကျမ်းကိုး။ တင်မြင့်၊ ဗန့်ကျီကို လှမ်းပါလို့ ပခန်းကို ဝင်ခဲ့တယ်၊ စာပေဗိမာန် စာမူ ဆုရ၊ ၁၉၉၁ ခု၊ စာပဒေသာ ပထမဆု၊ ၁၉၉၃ ခု၊ ပထမအကြိမ်၊ ဧပြီလ၊ စာ ၁၈)

ထိုကျမ်းတို့မှာ - ၁။ နိက္ခမဝိဒါန ဒီပနီကျမ်း (၁၂၅၈/အေဒီ ၁၈၉၆ ခု )၊ ၂။ အရိယာ မဂ္ဂ ဒီပနီကျမ်း (၁၂၆၂/အေဒီ ၁၉၀၀ ခု)၊ ၃။ အနေကဇာတင် ပါဠိ နိသျကျမ်း (၁၂၆၃/အေဒီ ၁၉၀၁ ခု)၊ ၄။ ဓမ္မရာသီကျမ်း (၁၂၆၆/အေဒီ ၁၉၀၄ ခု)၊ ၅။ ပဏ္ဍိတဝေဒနိယ ဒီပနီကျမ်း (၁၂၆၇/ အေဒီ ၁၉၀၅ ခု)၊ ၆။ သုမေဓာ သုမိတ္တာ ဗျာဒိတ်ခန်း (၁၂၇၂/အေဒီ ၁၉၁၀ ခု)၊ ၇။ အန္တရာယ်ကင်း မဟာပရိတ်တော်ကြီး (၁၂၇၂/အေဒီ ၁၉၁၀ ခု)၊ ၈။ အဘိဓမ္မတ္ထပကာသနီကျမ်း (၁၂၇၅/အေဒီ ၁၉၁၃ ခု)၊ ၉။ ပစ္စယတ္ထ ပကာသနီကျမ်း (၁၂၇၅/အေဒီ ၁၉၁၃ ခု)၊ ၁၀။ တိုင်းကြီးသောဠသ မြေပုံငယ်ကျမ်း (၁၂၈၀/အေဒီ ၁၉၁၈ ခု)၊ ၁၁။ သောဠသရဋ္ဌ ဒီပနီကျမ်း (၁၂၈၀/ အေဒီ ၁၉၁၈ ခု)၊ ၁၂။ လယ်တီထေရ် ဈာပန ဝိနိစ္ဆယကျမ်း (၁၂၈၆/အေဒီ ၁၉၂၄ ခု )၊ ၁၃။ နိရုတ္တိပဒဗျဥ္ဇနပါဠိ (၁၂၈၆ / အေဒီ ၁၉၂၄ ခု)၊ ၁၄။ စတုဗ္ဗိဓ ဗျာကရဏကျမ်း (၁၂၈၀/အေဒီ ၁၉၁၈ ခု ) တို့ဖြစ်ကြပါသည်။

(ကျမ်းကိုး။ တင်မြင့်၊ ဗန့်ကျီကို လှမ်းပါလို့ ပခန်းကို ဝင်ခဲ့တယ်၊ စာပေဗိမာန် စာမူ ဆုရ၊ ၁၉၉၁ ခု၊ စာပဒေသာ ပထမဆု၊ ၁၉၉၃ ခု၊ ပထမအကြိမ်၊ ဧပြီလ၊ စာ ၁၈-၁၉၊ ဖိုးဒေါင်းသား၊ ဂန္ထိရ မဂ္ဂဇင်း၊ ၂၀၀၅ ခု၊ ဇန်နဝါရီလ စာ ၅၂ )

အချို့လည်း ပုံနှိပ်အဆင့် ရောက်သည်။ အချို့လည်း ပုံမနှိပ်ရသေးဟု သိရပါသည်။

(ကျမ်းကိုး။ သို့ရာတွင် သေကျွတောင် ဆရာတော် ဦးတိလောက၏ အတ္ထုပ္ပတ္တိကို စာပြုစာဆို ပုဂ္ဂိုလ်ကျော်များကျမ်း၌ မတွေ့ရပါ။ စာဆိုတော်များ အတ္ထုပ္ပတ္တိကျမ်း၊ မြန်မာစာပေသမိုင်း ကျမ်းတို့၌လည်းမတွေ့ရပါ၊ ဆရာတော်၏ကျမ်းတို့သည် လေးနက် ခက်ခဲသော လောကုတ္တရာဆိုင်ရာ၊ ဗိဒ္ဓကတ်ရေးဆိုင်ရာနှယ်သော ကျမ်းများပင် ဖြစ်၍ လော။ စဉ်းစားဖွယ်ဖြစ်ပါသည်။)



စာပေလောကတွင် ထင်ရှားခဲ့သော လယ်တီပဏ္ဍိတဦးမောင်ကြီးသည်ပင် ဦးတိလောကထံ တပည့်ခံခဲ့ရဖူး၏။ ဦးတိလောကသည် သေက္ခတောင်အရပ်မှာပင် လယ်တီဆရာတော်ကြီးကဲ့သို့ သာသနာပြုနိုင်ခဲ့၏။ တန်ခိုးအာနုဘော်ကြီးမားခဲ့၏။ ဆရာတော်သည် ကမ္မဋ္ဌာန်းဘာဝနာအလုပ်ဖြင့် ဈာန်အဘိညာဉ်ရခဲ့သော ပုဂ္ဂိုလ်ထူးတစ်ပါးဟုဆိုခဲ့ပါသည်။

(ကျမ်းကိုး၊ တင်မြင့်၊ ဗန့်ကျီကို လှမ်းပါလို့ ပခန်းကို ဝင်ခဲ့တယ်၊ စာပေဗိမာန် စာမူ ဆုရ ၁၉၉၁ ခု၊ စာပဒေသာ ပထမဆု၊ ၁၉၉၃ ခု၊ ပထမအကြိမ်၊ ဧပြီလ၊ စာ ၁၉)

သေက္ခတောင်ဆရာတော်နှင့် အံ့ဩကြည်ညိုဖွယ်ရာများကို အပြည့်အစုံအားဖြင့် သိရသည်မှာ အမြတ်ခွန်မင်းကြီး ဦးစံသိမ်း၏ ထုတ်ဖော်ပြောကြားချက်အရဖြစ်ကြောင်းသိရပါသည်။

(ကျမ်းကိုး ဓမ္မာစရိယဦးဒွေးလှိုင် ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ၊ နဝမအကြိမ် ၁၉၉၃၊ စာမျက်နှာ ၄၇၉ ကို ကြည့်ပါ။)

ခေါသန္တိကျောင်းမှ ဆရာတော်ဦးသုမင်္ဂလာက မှတ်မိသမျှ ဦးတိလောက၏ ထေရုပ္ပတ္တိကို ပြောပြပြီးနောက် ရှေးလူကြီးများ အဆက်ဆက်ပြောခဲ့သော ဆရာတော်၏ ကဗျာဉာဏ် ရွှင်ပုံကလေးကိုလည်းမိန့်ကြားသည်။

> ဗန့်ကျီနယ်တွင် နှမ်းပေါ်ချိန်ကာလများ၌ ဘုန်းတော်ကြီးကျောင်းများသို့ နှမ်းကန်တော့ပွဲများ စုပေါင်းကျင်းပလေ့ရှိကြသည်။ ရဟန်းသာမဏေတို့ကလည်း နှမ်း ဆွမ်းခံကြွလေ့ရှိသည်။ ဦးတိလောက သာမဏေဘဝကခေါသန္တိမှ နွယ်အင်းရွာသို့ ကျောင်းသားနှစ်ယောက်နှင့် နှမ်းဆွမ်းခံကြွ၏။ ကျောင်းသားနှစ်ယောက်မှာ ဘိုးကြွယ်နှင့် စံညွန့်ဖြစ်၏။ ကိုရင်နှင့် ကျောင်းသားများလမ်းမှာ စကားတပြောပြော ငြင်းရင်းခုံရင်းမှာ လာခဲ့ကြရာ တောလမ်းခရီးမှာ လမ်းမှား၍ ရွာတံခါးဝသို့ရောက်သောအခါ မိမိတို့သွားလိုရင်း နွယ်အင်းရွာသို့မရောက်ဘဲ နှောရိုးရွာသို့ ရောက်သွားသည်။ မထူးတော့ပြီဖြစ်၍ နှောရိုးရွာအတွင်း နှမ်းဆွမ်းခံရာ နှမ်းများများမရပေ။ ကျောင်းသို့ ပြန်ရောက်ကြသောအခါ အရှင်တိလောက သာမဏေက စာစပ်၍ဆိုသည်။ "ဘိုးကြွယ်နှင့် စံညွန့်၊ ဉာဏ်ကွန့်လို့ နှမ်းခံ၊ လမ်းမမှန်ဖောက်ထိုး၊ သဒ္ဓါစိတ်ပေါ်မထင်၊ မြော်မမြင် စေတနာမဲ့ တယ် လွဲပေါ့နှောရိုး"ဟူ၍ဖြစ်ပေသည်။

(ကျမ်းကိုး၊ တင်မြင့်၊ ဗန့်ကျီကို လှမ်းပါလို့ ပခန်းကို ဝင်ခဲ့တယ်၊ စာပေဗိမာန် စာမူ ဆုရ ၁၉၉၁ ခု၊ စာပဒေသ ပထမဆု၊ ၁၉၉၃ ခု၊ ပထမအကြိမ်၊ ဧပြီလ၊ စာ ၂၀)

ဆရာတော်သည် ဦးတိလောကသည် လောကီရေး၊ လောကုတ္တရာရေး နှစ်ဖြာလုံးတွင် ထူးခြားပြောင်မြောက်ခဲ့သော အာဇာနည်ပုဂ္ဂိုလ်ထူးဖြစ်သည်ဟု လေ့လာတွေ့ရှိရပါသည်။

(ကျမ်းကိုး၊ တင်မြင့်၊ ဗန့်ကျီကို လှမ်းပါလို့ ပခန်းကို ဝင်ခဲ့တယ်၊ စာပေဗိမာန် စာမူ ဆုရ ၁၉၉၁ ခု၊ စာပဒေသာ ပထမဆု၊ ၁၉၉၃ ခု၊ ပထမအကြိမ်၊ ဧပြီလ၊ စာ ၁၉-၂၀)

ဦးတိလောက၏ သမာဓိအား ကောင်းပုံကို ဆရာကြီး လယ်တီဦးလှပိုင်၏ တစ်ဆင့်ပြောစကားဖြင့် သိရသည်မှာလည်း ကြည်ညိုလောက်ပါသည်။ အောက်တွင်ဖတ်ကြည့်ပါ။

> သရဲမကြီးတစ်ယောက်သည် ဦးတိလောကအား စမ်းသပ်ပုံကို ကြားသိရဖူးပါသည်။ ဦးတိလောကသည် ဝါးကျောင်းငယ်တွင် သီတင်းသုံးနေစဉ်ကဖြစ်ပါသည်။ ထိုအခါတွင် ဝါးကျောင်းငယ်တွင် လှေကားသုံးဆင့်ရှိ၏။ တစ်နေ့သောအခါ ထိုသရဲမသည် ထိုလှေကားသုံးဆင့်ကို အုပ်မိအောင် သူ၏လျှာကို အရှည်ကြီးပြုလုပ်လျက်ဖြန့်ခင်းထားလေသည်ဟုဆိုပါသည်။ ထိုသရဲမသည် လယ်တီတိုက်တွင် အလွန်လူသိ



များသည်ဟုဆိုပါသည်။ ကျေးဇူးရှင်လယ်တီ ဆရာတော်ဘုရားကြီး၏ တရားတော်ကို အမြတ်မ်း နာခံလေ့ရှိသော သာဝကသရဲမကြီးဖြစ်သည်ဟုလည်း ဆိုကြပါသည်။ ထို့ကြောင့် ထိုသရဲမကြီးသည် အလွန် ဇွဲနပဲကြီးလှသော ဦးတိလောကကို သမာဓိ စမ်းသပ်လိုသဖြင့် ကြောက်ဖွယ်ကိုယ်ကိုဖန်ဆင်းလျက် ရှည်သောအမွေးများဖြင့် လည်းကောင်း၊ ပြူးသောမျက်လုံးများဖြင့်လည်းကောင်း၊ ကြီးမားသော လျှာကြီးကို လည်းကောင်း ဖန်ဆင်းလျက် စမ်းသပ်ကြောင်း ပြောကြပါသည်။

သူကလည်း သရဲမကြီးဖြစ်၏။ ဟိုကလည်း ဦးတိလောကဖြစ်၏။ ဦးတိလော ကသည် ထိုသရဲမကြီးကိုတွေ့သော်လည်း တုန်လှုပ်ခြင်းအလျဉ်းမရှိ။ စာကြည့်နေရင်း ဖြစ်သဖြင့် အနားတွင်ရှိသော ပေထုပ်ကျမ်းကိုယူပြီးလျှင် လာ၍ရှုပ်သော ထိုသရဲမကြီး ကို ရိုက်မည်ဟုပြုလုပ်လိုက်သောအခါ သရဲမကြီးလည်း ဦးတိလောကကို ခြောက်လှန့် ခြင်းလည်းမဟုတ်၊ ပညာပြိုင်ခြင်းလည်းမဟုတ်၊ သမာဓိ စမ်းသပ်ရုံကလေးမျှသာ ဖြစ်သဖြင့် ကြောက်ကြောက်လန့်လန့်ဖြင့် အလျှင်အမြန်ထွက်ပြေးရသည်ဟု ယခုထက် တိုင် ပြောဆိုလျက်ရှိကြပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၃၁၉၊၃၂၀) (ကျမ်းကိုး၊ မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊)

၁၈၉၇ သမာဓိအလွန်ရင့်ကျက်လာသော ဦးတိလောကသည် အေဒီ ၁၈၉၇ ခု (သက္ကရာဇ် ၁၂၅၉ ခုနှစ်)မှစ၍ လယ်တီတောရ ကျောင်းတိုက်မှထွက်ခဲ့သည်။ ၎င်းနောက် အထက်အညာ ချင်းတွင်းမြစ်ဖျားအရပ်သို့ ကြွရောက်၍ တရားအားထုတ် ခဲ့သည်။

၎င်းနောက် ငှက်ဖျားထူသောအရပ်များကို စွန့်ခွာလျက် တစ်တောဝင် တစ်တောင်ထွက် ကျင့်ကြံအားထုတ်ခဲ့ရာ နောင်သောအခါတွင် ကျိုက်ထိုမြို့၏ အရှေ့မျက်နှာစာမနီးမဝေးတွင်တည်ရှိသော "သေက္ခပဗ္ဗတ"မည်သော သေက္ခတောင်သို့ ရောက်ရှိလာကြောင်းသိရပါသည်။

သေက္ခတောင်သို့ ရောက်လာသောအခါမှာလည်း ထုံးစံအတိုင်းပင် ဦးတိလောကသည် နေ့မသိ၊ ညမသိ၊ နေ့မရှိ၊ ညမရှိ တရားကိုသာ တွင်တွင်ကြီးအားထုတ်ခဲ့လေသည်။

ထိုတောင်ပေါ်တွင် သက်ကယ်မြက်မိုး ဝါးကျောင်းကလေးတစ်ဆောင် ဆောက်လုပ်ခဲ့ကြောင်း ထိုဝါးကျောင်းမှာပင် ထူးထူးကဲကဲ အားထုတ်ခဲ့ကြောင်း သိရပါ သည်။ ဆွမ်းအာဟာရကိုဖြတ်လျက်၊ မတ်မတ်မှလဲလုမျှ ကျင့်ကြံအားထုတ်ခဲ့ကြောင်း သိရပါသည်။

ထိုသေက္ခတောင်တွင် လိုဏ်ဂူတစ်ဂူရှိ၏။ ဦးတိလောကသည် ထိုလိုဏ်ဂူ အတွင်းတံခါးကိုပိတ်လျက် ဆွမ်းအာဟာရဖြတ်၍ ကျင့်ကြံအားထုတ်ခဲ့ကြောင်း သိရပါသည်။

ဦးတိလောကသည် ပြင်းထန်သော လုံ့လဖြင့် "မဟာတပ"ခေါ် အကျင့်မြတ် ကိုကျင့်၍ နေခဲ့လေသည်။

ထိုတောရတွင် နှစ်ခန်းကျောင်း အုတ်တိုက်တစ်တိုက်ရှိ၏။ ထိုအုပ်တိုက်၏ ဝင်ပေါက် ထွက်ပေါက် တံခါးပေါက်ကို အုတ်အင်္ဂတေဖြင့် အသေပိတ်ပြီးလျှင် ငါသည် ဈာန်ရမှ ဤအုတ်ဂူထဲမှ ဈာန်တန်ခိုးဖြင့်ထွက်အံ့ဟု ကြုံးဝါးတော်မူခဲ့ကြောင်း သိရပါ သည်။



(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၁၂၃၊)

ထိုကျောင်းတွင် ဆွမ်းတစ်ထပ်မျှတာဘုဉ်းပေးကြောင်း သိရပါသည်။ ညောင်းညာလျှင်လည်း ထိုကျောင်းတွင် စကြံန်လျှောက်၏။ ထိုကျောင်းတွင်ပင် ဆွမ်းအုပ်သွင်းရန် အပေါက်တစ်ခုရှိ၏။ ၎င်းပြင် ကျင်ကြီးကျင်ငယ်ထုတ်ရန် အပေါက်တစ်ခုရှိ၏။ အခြားအပေါက်မရှိဟုသိရပါသည်။ ဤသို့ တစ်နှစ်တိတိ ကျင့်ကြံအားထုတ်ခဲ့ကြောင်းသိရပါသည်။ ဤသို့အားထုတ်၍ တစ်နှစ်ကြာသောအခါ မုံရွာမြို့လယ်တီ ဆရာတော်ဘုရားထံသို့ စာတစ်စောင် ရေးသားလျှောက်ထားခဲ့ပါသည်။

**ထိုစာတွင် "တပည့်တော်သည် ယခုနေအခါ အမှီသဟဲရခဲ့ပါလျှင် ရဟန်းကိစ္စ ချောမောပါတော့မည်"ဟု ပါရှိကြောင်းသိရပါသည်။**

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၁၂၄)

၁၈၉၈ လယ်တီဆရာတော်ဘုရားကြီးသည် ဦးတိလောက၏ လျှောက်လွှာအရ လယ်တီတောရတိုက်မှ တပည့်နှစ်ဦးနှင့်အတူ ကျိုက်ထိုသို့ ကြွလာခဲ့လေသည်ဟု ဆိုပါသည်။ ထိုနှစ်သည် အေဒီ ၁၈၉၈ (၁၂၆၀ ခုနှစ်) ဖြစ်သည်။ လသည် နတ်တော်လ ဖြစ်၏။

ကြွရောက်သောခရီးစဉ်မှာ မုံရွာမှ မြင်းမူသို့ လှည်းဖြင့်လာ၏။ မြင်းမူမှ မန္တလေးသို့ မီးသင်္ဘောဖြင့်လာ၏။ မန္တလေးမှ ပဲခူးသို့ မီးရထားဖြင့်လာ၏။ ပဲခူးမှ ကျိုက်ထိုသို့လာ၏။ ကျိုက်ထိုမှ သေက္ကျတောင်သို့လာ၏။ ဤသို့ဖြင့် ကုန်းတစ်တန်၊ ရေတစ်တန် ကြွရောက်ခဲ့ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၁၂၄ )

ဆရာတော်ကြီးသည် သေက္ကျတောင်ပေါ်သို့ရောက်သောအခါ တပည့်ကြီး ဦးတိလောကနှင့် တွေ့ဆုံခဲ့လေသည်။ ထိုအခါ ဦးတိလောကအားထုတ်သော တရားအစဉ်များကို မေးမြန်းစိစစ်တော်မူလေသည်။ ဈာန်မဂ်ဖိုလ်တရားတို့ကို ဧကန်ပင် ရနိုင်သည်ဟူသော ဦးတိလောက၏ မျှော်လင့်ချက်ကြီးမားမှုကို တွေ့မြင်ရလေသည်။ ထိုအခါ ထိုတောင်မှာပင် လယ်တီဆရာတော်ကြီးကလည်း တရားအားထုတ်ပြတော်မူသည်။

ထိုသို့ တရားအားထုတ်ရာတွင် တစ်နေ့သောအခါ ဦးတိလောက အံ့ဩလောက်သော အဖြစ်အပျက်တစ်ရပ်ကို ရင်ဆိုင်ရလေသည်။ ရင်ဆိုင်ရပုံမှာ ဤသို့ဖြစ်ပါသည်။

**သေက္ကျတောင် ဦးတိလောကသည် လယ်တီဆရာတော်ဘုရားကြီး တရားထိုင်တော်မူသည့် သစ်ခက်မိုး၊ ကမ္ပဋ္ဌာန်းကျောင်းကလေးသို့ အမှတ်မထင်ရောက်သွားသောအခါ ကြမ်းပေါ်မှ နှစ်တောင်လောက်မြင့်တက်လျက် ဈာန်ပျံနေသည့် လယ်တီဆရာတော်ဘုရားကြီးကို မျက်ဝါးထင်ထင် ဖူးတွေ့လိုက်ရလေသည်။**

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၁၂၅၊)

**လယ်တီဆရာတော်ဘုရားကြီးသည် တင်ပျဉ်ခွေလျက်ရှိ၏။ မျက်လွှာချထား၏။ တရားအားထုတ်နေ၏။ ကြမ်းပြင်နှင့် နှစ်တောင်ခန့် မြင့်တက်နေ၏။ ထိုသို့ မြင်ရသူများထဲတွင် ဦးတိလောကသာမက ဦးနန္ဒမာလာလည်းပါ၏။**



ဦးဝိသုဒ္ဓလည်းပါ၏။ ဦးဇဝနလည်းပါ၏။ ဦးသောဘဏလည်းပါ၏။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၁၂၄ )

ပဏ္ဍိတမှာလည်း နှစ်ပါးရှိ၏။ ပဏ္ဍိတတစ်ပါးမှာ လယ်တီပဏ္ဍိတဖြစ်၏။ အခြားပဏ္ဍိတတစ်ပါးမှာ မုံရွာမြို့အနီး ခိုးသန်းရွာဇာတိ ဦးပဏ္ဍိတဖြစ်၏။ ခိုးသန်းဦးပဏ္ဍိတမှာ နောင်အခါ လူဝတ်လဲသွား၏။ ခိုးသန်းရွာဦး ကျောင်းဒကာကြီးဖြစ်၏။ အခြားပဏ္ဍိတတစ်ဦးမှာ လယ်တီပဏ္ဍိတအမည်ခံ လယ်တီပဏ္ဍိတဦးမောင်ကြီးဖြစ်လာမည့် ပုဂ္ဂိုလ်ဖြစ်၏။ ခိုးသန်းရွာ ပဏ္ဍိတက လယ်တီပဏ္ဍိတ ဦးမောင်ကြီးထက် ၄ - နှစ်ကြီးကြောင်းသိရပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၁၂၅ )

ထိုသို့ နှစ်တောင်ခန့် ဈာန်ပျံနေသော လယ်တီဆရာတော်ဘုရားကြီးကို ဖူးတွေ့ရသောအခါ ဦးတိလောကသည် ထိုအခြင်းအရာတို့ကို မည်သူတစ်ဦးတစ်ယောက်မျှ မပြောပြရဟု နှုတ်ပိတ်တရား ဟောကြားခဲ့လေသည်။ အဘယ်ကြောင့်ဆိုသော် မယုံသူတို့ အကုသိုလ်ဖြစ်မည် စိုးသောကြောင့်ဖြစ်ပါသည်။

(ကျမ်းကိုး၊ မောင်ပန်းမွေး၊ အချစ်ဈာနယ်၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များ သမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၁၂၅)

ထိုသို့သောအချိန်အခါတွင် လယ်တီဆရာတော်ဘုရားကြီးသည် ဦးတိလောကနှင့်အတူ ဆံတော်ရှင်ကျိုက်ထီးရိုးသို့ ဘုရားဖူးသွားရောက်ခဲ့သည်။ လျှိုမြောင်အထပ်ထပ်ကို ဖြတ်သန်း၍ သွားကြရလေသည်။

ထိုအချိန်အခါတွင် ကျိုက်ထီးရိုးဆံတော်ရှင်ဘုရားသို့အသွား လမ်းခရီးတွင် ဆင်ကြီးများရှိလေသည်။ ထိုဆင်ကြီးများမှာ ဘုံဘေဘားမား သစ်ကုမ္ပဏီမှ သစ်ခုတ်သူများပိုင်ဆိုင်သော ဆင်ကြီးများဖြစ်လေသည်။

ထိုဆင်ကြီးများထဲမှ ဆင်ရိုင်းကြီးတစ်ကောင်သည် ဆရာတော်၏နောက်သို့ ပြေး၍လိုက်လေသည်။ ထိုအခါ နောက်တွင် အတူပါလာသော တပည့်အပေါင်းတို့မှာလည်း အခွနှစ်ခုရှိသော သစ်ပင်ကြီးပေါ်သို့ ပြေး၍တက်ကြရလေသည်။ ထိုသို့ပြေးတက်သူများထဲတွင် ဦးတိလောကလည်း ပါဝင်နေသည်။ မုံရွာမြို့ လယ်တီဆရာတော်ဘုရားကြီးက မတုန်မလှုပ် ဆက်၍ကြွတော်မူလေသည်။ ထိုသို့ ကြွတော်မူရင်းကပင် လျှင် "တောကျောင်းမှာနေပြီး ရဟန်းကိစ္စချောမောလုပ်ပါပြီဆိုတဲ့ ရဟန်းဟာ ဆင်လာနေတာကို ကြောက်ရသေးသလား"ဟု မိန့်တော်မူကြောင်းသိရပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီဂန္ထဝင်ကျော်များသမိုင်း ပထမအကြိမ် ပုံနှိပ်ခြင်း ၁၉၆၇ ဩဂုတ်လ စာ ၁၂၅)

လယ်တီဆရာတော်ဘုရားကြီး မုံရွာသို့ပြန်၍ ကြွတော်မူသောအခါ ဦးတိလောကသည် ထိုတောင်မှာပင်ဆက်၍ တရားအားထုတ်ခဲ့လေသည်။ ထိုအခါ သေကျွတောင် ဦးတိလောကသည်လည်း ဆရာတော်ကြီးနည်းကိုယူ၍ ဈာန်ပျံခဲ့လေသည်။ ဤရွေ့ဤမျှထူးသော ဦးတိလောကဖြစ်ပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင်ကျော်များ သမိုင်း၊ စာမျက်နှာ ၁၂၃၊၁၂၅၊ ၁၉၆၇ ခု၊ ဩဂုတ်လ၊ ပထမအကြိမ် ပုံနှိပ်ခြင်း သုခဝတီစာပုံနှိပ်တိုက် မန္တလေးမြို့။)

## ကိုယ်တွေ့မျက်မြင် ထူးခြားခဲ့သော သေက္ခတောင် ဦးတိလောက



သေက္ခတောင်ဆရာတော် ဦးတိလောကအကြောင်းကို ပြန်ပြောရသည်မှာ အံ့ဩဖွယ်လည်းဖြစ်၏။ ကြည်ညိုဖွယ်လည်းဖြစ်၏။ သေက္ခတောင်ဦးတိလောက ရေးသားစီရင်တော်မူခဲ့သော ပဏ္ဍိတဝေဒနိယကျမ်းကြီးကို မြင်မိတိုင်းမြင်မိတိုင်း အတိတ်ကအရိပ်များသည် စိတ်ဝယ်တရစ်ဝဲဝဲ ပြန်၍ပေါ်လာတတ်ပါသည်။

ဆရာတော် ဦးတိလောကနှင့်စပ်သော ဟောပြောချက်ကို အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေသည့် စာစောင်တွင် တွေ့ရပါသည်။ ထိုဗုဒ္ဓသာသနာ သမာဂမအဖွဲ့တွင် သမ္မတကြီး စောရွှေသိုက် ၊ ယောဂီဦးတင်၊ မြန်အောင်ဦးတင်၊ ဦးစိန်ထွန်းညို၊ ဦးထွန်းလှအောင်၊ အင်္ဂလိပ်လူမျိုးဦးအုန်းခိုင်၊ မစ္စတာမောရစ်၊ ကမ္ဘာအေးဓမ္မရောင်ခြည် အင်္ဂလိပ်စာစောင်အယ်ဒီတာ စသည့်ပုဂ္ဂိုလ်များ ပါဝင်တည်းဖြတ်သည့် စာစောင်ဖြစ်ကြောင်း သိရသဖြင့် ဦးတိလောကကိုယ်တော်ကြီးသည် ကြမ်းပြင်မှ တစ်တောင်လောက်လွတ်နေကြောင်း၊ ကြမ်းခင်းများခွာပစ်သော်လည်း လေထဲတွင် ဈာန်ပျံနေကြောင်း၊ ကိစ္စများသည် ဖြစ်ရပ်မှန်ဖြစ်ကြောင်း အားကိုးယုံကြည်ထိုက်ပါသည်။

(ကျမ်းကိုး Open Door စာစောင် အတွဲ ၁၊ အမှတ် ၃ ၊ စာ ၉)

၁၉၃၁ ဦးတိလောကကိုယ်တော်ကြီးသည် အေဒီ ၁၉၃၁ ခု (မြန်မာသက္ကရာဇ် ၁၂၉၃ ခုနှစ်)တွင် ထိုကျိုက်ထိုမြို့နယ် သေက္ခတောင်၌ပင် ပျံလွန်တော်မူခဲ့သည်ဟု သိရပါသည်။

ပျံလွန်တော်မမူမီ ကာလများတွင် မိမိဇာတိဖြစ်သော ခေါသန္တီရွာသို့ ရံဖန်ရန်ခါ ပြန်ကြွလာတတ်သေးကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ (၂) တင်မြင့်၊ ဗန့်ကျိုကို လှမ်းပါလို့ ပခန်းကို ဝင်ခဲ့တယ်၊ စာပေဗိမာန် စာမူ ဆုရ၊ ၁၉၉၁ ခု၊ စာပဒေသ ပထမဆု၊ ၁၉၉၃ ခု၊ ပထမအကြိမ်၊ဧပြီလ၊ စာ ၁၉-၂၀)

၁၉၃၁ ဆရာကြီး လယ်တီဦးလှပိုင်ကမူ အေဒီ ၁၉၃၁ ခု၊ ဩဂုတ်လ ၂၆ ရက်၊ ဗုဒ္ဓဟူးနေ့၊ (၁၂၉၃ ခု၊ ဒုတိယ ဝါဆိုလပြည့်ကျော် ၁၃ ရက်နေ့) ညဉ့်နာရီပြန် ၂ ချက်တီးအချိန် သက်တော် ၆၀ အရွယ်တွင် စံလွန်တော်မူ၏။ အတိအကျ မှတ်တမ်းပြုခဲ့ပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင်ကျော်များသမိုင်း ၁၉၆၇ ခု၊ ဩဂုတ်လ၊ ပထမအကြိမ်၊ သုခဝတီ၊ ပုံနှိပ်တိုက်၊ မန္တလေးမြို့၊ စာ ၃၃၂ )

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ ခု၊ မေလ၊ နဝမအကြိမ် စာ၊ ၄၇၉ - ၄၈၁ )

(ကျမ်းကိုး၊ (၂) တင်မြင့်၊ ဗန့်ကျိုကို လှမ်းပါလို့ ပခန်းကို ဝင်ခဲ့တယ်၊ စာပေဗိမာန် စာမူဆုရ၊ ၁၉၉၁ ခု၊ စာပဒေသာ ပထမဆု၊ ၁၉၉၃ ခု၊ ပထမအကြိမ်၊ ဧပြီလ၊ စာ ၁၉-၂၀ )

(ကျမ်းကိုး၊ (၃) ဆရာဦးကျော်ထင်၊ သာသနာတော်၌ ထင်ရှားသော ဆရာတော်ဘုရားကြီးများ၊

၂၀၀၄ ခုနှစ်၊ အောက်တိုဘာလ၊ ပထမအကြိမ်၊ စပယ်ဦးစာပေ၊ စာ ၈၃-၈၆ )

(ကျမ်းကိုး၊ (၄) ဖိုးဒေါင်းသား၊ သေက္ခတောင် ဆရာတော် ဦးတိလောက၊ ဂမ္ဘီရ မဂ္ဂဇင်း၊ ၂၀၀၅ ခု၊ ဇန်နဝါရီလ ၊ အမှတ် ၁၁၄၊ စာ ၅၀-၅၄ )

# မိုးညှင်းသမ္ဗုဒ္ဓေ ကိုယ်တော်မြတ်ကြီး

## အေဒီ ၁၈၇၃ - ၁၉၆၅ ( ၁၂၃၄ - ၁၃၂၆)





ဤကျမ်းပြုသူသည် မိုးညှင်းသမ္ဗုဒ္ဓေ ကိုယ်တော်ကြီး၏ ရုပ်ပုံလွှာနှင့် ထူးခြားလှသော အုဂ်ဖိုရ် ဆရာတော်ရုပ်ပုံလွှာတို့ကို မောင်ပန်းမွှေး ဝိဇ္ဇာအထွေထွေဂုဏ်ထူး မဟာဝိဇ္ဇာဟူသော အမည်ဖြင့် ငယ်စဉ်ကာလကပင် ရေးသားပူဇော်ခဲ့ဖူးလေသည်ဟု အမှတ်ရမိပါသည်။ ပြန်လည်ရှာဖွေသောအခါ ၁၉၈၇ ခု၊ ဇူလိုင်လ ၁၇ ရက်နေ့၊ ဝါဆိုလပြည့်ကျော် ၇ ရက်နေ့ထုတ် မဇ္ဈိမကြေးမုံစာစောင် အတွဲ ၁၊ အမှတ် ၂၊ စာမျက်နှာ ၂၃၄ တွင် ပြန်လည်တွေ့ရှိရပါသည်။ ထို့ကြောင့်လည်း မြန်မာနိုင်ငံ ရဟန္တာနှင့် ရဟန်းထူးများ ထေရုပ္ပတ္တိကို ဤကျမ်းပြုသူသည် ၁၉၈၇ ခုနှစ်ကပင်စတင်၍ စုဆောင်းခြင်းပြုခဲ့သည်ဟု ဆိုနိုင်ပါတော့သည်။

၎င်းနောက်တစ်ဖန် အားမရနိုင်သေးဘဲ ၂၀၀၃ ခုနှစ်ထုတ်၊ ကမ္ဘာ့ရှင်ဘုရင်ဟူသော စာအုပ်တွင် စာမျက်နှာ ၁၆ - ၂၄ တို့တွင် ဖော်ပြခဲ့ပြန်ပါသည်။ ထိုသို့ အားမရနိုင်ဘဲ ပူဇော်လိုပြန်သဖြင့် အချစ်ဂျာနယ်တွင် ၃ ပတ် ဆက်၍ ရေးသားခဲ့ပြန်ပါသည်။

ဤသို့ သဒ္ဓါစိတ် ဆက်လက်ဖြစ်ပွားရသည်မှာ ၁၉၇၄ ခု၊ မတ်လတွင် ပထမအကြိမ် ထုတ်ဝေသော တန်ဖိုး ၅ ကျပ်မျှပေးရသည့် ဆရာစံတိုး၏ ပန်းချီမျက်နှာဖုံးနှင့် ထုတ်ဝေခဲ့သော ပါဠိမြန်မာ အဘိဓာန် ကျမ်းပြုအယ်ဒီတာ ပါဠိမဟာဝိဇ္ဇာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ စာအုပ်ကို ဖတ်၍ ကြည်ညိုသောကြောင့် ဖြစ်ပါသည်။

ထိုနှစ် (၂၀)က စာကို ယခုတစ်ဖန်ပြန်၍ ဖော်ပြရပါဦးမည်။

## မိုးညှင်းဆရာတော် မဟာရုပ်ပုံလွှာ

မန္တလေး ကျောက်ဆည်လမ်းတွင် မြစ်ငယ်အနီး၌ ရွာကလေး တစ်ရွာရှိလေသည်။ ထိုရွာကလေး၏ အမည်ကား အဲဗျမက္ခရာရွာ ဟူသောအမည် ဖြစ်ပါသည်။ ထိုရွာကလေး၏ အရှေ့ဘက်တွင် ဒုဋ္ဌဝတီဟူသောမြစ်ရှိသည်။ အနောက်ဘက်တွင်ကား ရွှေစည်းခုံဟူသော ဘုရားကြီးရှိသည်။ ထိုအနီးတွင် ထူထပ်သောချုံတောများ ရှိလေသည်။ ထိုချုံတောများအလယ်တွင် လေးတိုင်စင်တောရကျောင်းကလေး တစ်ကျောင်း ရှိလေသည်။

## သပိတ်တစ်လုံး သင်္ကန်းသုံးထည်

ထိုကျောင်းကလေးတွင် တောရကိုယ်တော်တစ်ပါးရှိ၏။ သပိတ်တစ်လုံးရှိ၏။ သင်္ကန်း သုံးထည်ရှိ၏။ စာအုပ်သုံးအုပ်ရှိ၏။ ထိုစာအုပ်များမှာ တစ်အုပ်က ဝိသုဒ္ဓိမဂ်၊ နောက်တစ်အုပ်က ဥပရိ ပဏ္ဏာသ အဋ္ဌကထာ၊ နောက်တစ်အုပ်က သုတ္တန်နိပါတ် အဋ္ဌကထာ။

## အမျှဝေသံ သာစုသံ

ထိုနေရာတွင် ဘုရားဝတ်ပြုသံ နေ့စဉ်ကြားရမည်။ အမျှဝေသံ နေ့စဉ်ကြားရမည်။ မဟာသမယသုတ်၊ ရာဟု လောဝါဒသုတ်။ သမစိတ္တသုတ်တို့ ရွတ်သံ ဖတ်သံ၊ တရားဟောသံတို့ နေ့စဉ်ကြားရမည်။

## ငှက်စကား နားလည်သလော

မေတ္တာကမ္မဋ္ဌာန်းပွားများပြီးသောအခါ ထိုကိုယ်တော်သည် ညနေစောင်းအချိန်



လောက်တွင် ကျောင်းမှထွက်လာပြီးလျှင် ရွှေစည်းခုံစေတီပျက်ကြီးဆီသို့သွား၍ ဝတ်ပြုသည်ကိုတွေ့ရပေလိမ့်မည်။ ထိုအခါ ကျေးငှက်တိရစ္ဆာန်များသည် ထိုကိုယ်တော်ကို ဝိုင်းရံနေကြောင်း မျက်ဝါးထင်ထင် တွေ့မြင်ရပေလိမ့်မည်။ ဝတ်ပြုပြီးသောအခါ ထိုကိုယ်တော်က ငှက်ကလေးတွေကို လက်နှင့်ညင်သာစွာကိုင်ကာ အောက်ပါအတိုင်း ပြောလိုက်လေသည်

"ကဲ - ငါ့ဆွေတော်မျိုးတော်တို့ ချမ်းသာစွာ ပြန်ကြပေတော့"

ထိုအခါ လူစကားနားလည်သကဲ့သို့ ငှက်ကလေးများသည် တကယ်ပင် တိတိကျကျ လိုက်နာကာ ပျံသန်း ထွက်ခွာသွားကြလေတော့သည်။

ထိုကိုယ်တော်ကလေးကား တခြားမဟုတ်။ မိုးညှင်းတောရ ကိုယ်တော်လေး ဦးသုမနပင် ဖြစ်တော့သည်။

## မိုးညှင်းတောရ

မုံရွာမှ ၆ မိုင်အကွာလောက်တွင် မြွေဆိုးထူထပ်လှသော ကျောင်းဟောင်းကြီးတစ်ခုသည် အောင်သာရွာနှင့် မြေနဲရွာအကြားတွင် တည်ရှိလေသည်။ လယ်တီဆရာတော်ကြီးက ပို့လိုက်သဖြင့် ထိုဦးသုမနသည် ထိုနေရာသို့ ရောက်လာလေသည်။ (ထိုနေရာသည် မိုးညှင်းတောရဟု နောင်အခါ ဟိုးဟိုးကျော်လာမည့်နေရာ ဖြစ်လေသည်။)

## ညအခါမအိပ်ရ စကားမပြောရ အမိန့်တော်

ထိုနေရာတွင် တစ်ပါးတည်းနေရသည်။ လွင်တီးခေါင်၌ အမိုးအကာမရှိနေရသည်။ နေ့ရောညပါ အိပ်စက်ခြင်းမပြု။ ကျောခင်း၍ပင် ကိုယ်မဆန့်။ စကားမပြောရ အမိဋ္ဌာန်(၇)ရက်စီ လီ၍ လီ၍ မိဋ္ဌာန်၏။ ၁၀ နှစ်တိတိ မိဋ္ဌာန်၏။

## နွားရိုင်းနှင့် တွေ့ခြင်းလည်းအဆန်း

တစ်နေ့သောအခါ ရွာထဲတွင် ဆွမ်းခံကြွတော်မူရာ နွားသိုးရိုင်းတစ်ကောင်သည် ရှေ့တည့်တည့်မှ ရင်ဆိုင်ပြေးလာသောကြောင့် လူအများမှာ ထိတ်လန့်လျက် 'မိုးညှင်းကိုယ်တော်လေး . . . နွား . . . နွားတိုက်ပါလိမ့်မယ်၊ ဖယ်ပေးတော်မူပါဘုရား' ဟု ဝိုင်း၍အော်ကြလေသည်။ ထိုအခါ ကိုယ်လေးက "ဒီဝတ်ကို အပျက်ခံပြီး ထွက်ပြေးလျှင် သေတာနဲ့အတူတူပဲ"ဟု ဆုံးဖြတ်ကာ ဆက်လက်၍ ကြွမြဲကြွသွားလေသည်။

နွားရိုင်းကြီးသည် ရှေ့တည့်တည့်သို့ ရောက်သောအခါမှာ တစ်ယောက်ယောက်က ဆီး၍ ရိုက်လိုက်ဘိသကဲ့သို့ ချာခနဲလှည့်ကာ ထွက်ပြေး တိမ်းရှောင်သွားခဲ့လေသည်။

## မြွေဆိုးနှင့်တွေ့ခြင်းလည်းအဆန်း

တစ်နေ့သောအခါ ဆွမ်းခံကြွလာပြန်ရာ မြွေဆိုးတစ်ကောင်သည် ခေါင်းထောင်လျက် စောင့်နေလေသည်။ လူအများက မောင်းနှင်သော်လည်းမရသဖြင့် "ရှေ့မှာ မြွေဆိုးကြီးပါဘုရား၊ နောက်ဆုတ်တော်မူပါ"ဟု လျှောက်ထားသော်လည်းမရ။ ကိုယ်တော်က ရှေ့သို့တိုး၏။ ရှေ့တည့်တည့် တစ်တောင်နှစ်တောင်လောက်အကွာတွင် မြွေကပင် လမ်းရှောင်ပေးရပြန်လေသည်။



## မြွေနှင့်တွေ့ခြင်းလည်း အဆန်း

တစ်နေ့သောအခါ ထို့ထက်ဆိုးသော ကိစ္စတစ်ရပ် ဖြစ်ရပြန်လေသည်။ ကိုယ်တော်သည် ဘုရားငုတ်တိုများတွင် သန့်ရှင်းရေးလုပ်ပြီးသောအခါ ဝတ်ပြုနေလေသည်။ ဆောင့်ကြောင့်ထိုင်ပြီးဝတ်ပြုနေစဉ် ဆောင့်ကြောင့်ထိုင်နေသော ခြေနှစ်ချောင်း အကြားမှ နောက်ဘက်မှရှေ့ဘက်သို့ မြွေဆိုးတစ်ကောင်ထွက်လာပြီးလျှင် တရှူးရှူး မာန်ဖီကာ ရန်စောင်နေပြန်လေသည်။ မေတ္တာဖိ၍ ကြပ်ကြပ်ပွားမှ ပျောက်သွားသောဟူ၏။

## လယ်တီဆရာအမိန့်တော်

လယ်တီဆရာတော်ကြီး လမ်းညွှန်သည့်အတိုင်း ထိုကိုယ်တော်သည် ဝိပဿနာခုရကို မနားမနေ အားထုတ်တော်မူလေသည်။ အောက်ပါအချက် (၆)ချက်ကိုလည်း တင်းတင်းကျပ်ကျပ် တိတိကျကျ လိုက်နာခဲ့လေသည်။ (၁) ပင့်ဆွမ်းကို လိုက်၍မစား။ (၂) အလှူအတန်း လိုက်ခြင်းမပြု။ (၃) ဘုန်းကြီးပျံပွဲမလိုက်၊ အစည်းအဝေးပွဲမလိုက်။ (၄) စကားလည်း မပြော၊ တရားလည်းမဟော၊ ဆယ်နှစ်တိတိ အားထုတ်ရမည်။ (၅) ဆယ်နှစ်ပြည့်မှသာ မိမိဋ္ဌာနမှာ တရားဟောရသည်။ (၆) အသက် ၆၀ ပြည့်မှသာလျှင် နယ်လှည့်ဟောရမည်။

## တရားပေါက်

၁၉၂၁ အေဒီ ၁၉၂၁ ၊ ဇူလိုင်လ (၁၂၈၃ ခုနှစ်၊ ဝါဆိုလ)တွင် (၁၀)နှစ် အဓိဋ္ဌာန်ပြည့်တော်မူ၏။ တရားထူးလည်းပေါက်တော်မူ၏။ ထိုနှစ်သီတင်းကျွတ်လတွင် လယ်တီဆရာတော်ကြီးကို သွားရောက်ကန်တော့သောအခါ ဆရာတော်က "သာဓု၊ သာဓု၊ သာဓု" ခေါ်တော်မူလေသည်။

## သုံးကိုယ်ခွဲ

မိုးညှင်းကိုယ်တော်ကြီးသည် တစ်ပြိုင်တည်းတွင် နှစ်နေရာ၊ သုံးနေရာခွဲ၍ တွေ့နေရသည်ဟု သတင်းဖြစ်ပွားလျက်ရှိလေသည်။ တစ်ခါတစ်ရံ ဖိုးဝန်းတောင်မှာ၊ တစ်ခါတစ်ရံ လက်ပံတောင်းတောင်မှာ၊ တစ်ခါတစ်ရံ ကျောက်ကာတောင်မှာ၊ တစ်ခါတစ်ရံ ကြေးမုံ ရွှေမြင်တင်တောင်မှာ။

## တစ်ကျောင်းလုံး လင်း

တစ်ခါ တစ်ခါ တစ်ကျောင်းလုံး လင်းနေတတ်သည်။ တစ်ခါ တစ်ခါ ဘုန်းကြီးပျောက်နေတတ်သည်။ တစ်ခါ တစ်ခါ နတ်ပြဟ္မာများ၊ ဘီလူးများကိုပင် တရားဟောနေတတ်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၏ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ စာအုပ်။ နှလုံးလှစာပေ၊ စာမျက်နှာ-၅၁၁၊ ကြောင်းရေ (၁၀-၁၃) တွင် တွေ့ရလေသည်)

## ပုံးကျင်းတူးစရာမလို

၁၉၄၁ ၁၉၄၁ ခုနှစ်၊ ဇန်နဝါရီလတွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော် ဆက်ကပ်ခံရသည်။ ထိုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် ဒုတိယ ကမ္ဘာစစ်ကြီးဒဏ်ကို ရန်ကုန်မြို့ကြီး



ပထမဆုံးအကြိမ် ခံလိုက်ရလေသည်။ ထိုအခါ မိုးညှင်းတောရကျောင်းကြီးတွင် စစ်ခိုနေသော ယောဂီများ တစ်ထောင်နှစ်ထောင်မက ရှိနေလေသည်။

ဗုံးကျင်းမတူးရ။ တရားကို ကြပ်ကြပ်နှလုံးသွင်းရမည်။ ဒါမှ ဘုရားတပည့် အရိယာသာဝက ဖြစ်မည်ဟု ကိုယ်တော်ကြီးက ဆုံးမတော်မူလေသည်။ ထိုအခါ သမ္ဗုဒ္ဓေစေတီကလည်း တည်နေဆဲ ကာလပင် ဖြစ်လေသည်။

ဗုံးသုံးလုံးတိတိ ကျ၏။ မပေါက်မကွဲ။ သဲထဲစိုက်လျက် နစ်နေလေသည်။

## ဗုံးပြီးသော ကိုယ်တော်ကြီး

၁၉၄၅ ၁၉၄၅ အောက်တိုဘာ ၂ ရက်တွင် ဒုတိယကမ္ဘာစစ်ကြီးပြီးသောအခါ အင်္ဂလိပ်စစ်တပ်ပြန်ဝင်လာစ အချိန်ဖြစ်သည်။

ထိုစစ်တပ်က အဝေးမှနေ၍ မုံရွာမြို့အား အမြောက်ဖြင့် ပစ်ဖောက်လေ သည်။ ထိုအခါ ဆရာတော်ကြီးသည် စင်္ကြံလျှောက်နေလေသည်။ ဗုံးဆန်သည် ဆရာ တော်ကြီးအား သေသေချာချာတည့်တည့်ကြီးမှန်လေသည်။ ဆရာတော်ကြီးလည်း ဗုံးဆန်အရှိန်ဒဏ်ကြောင့် မတ်တတ်မှ ဘုတ်ခနဲလဲကာ ထိုင်လျက်သား ပုံကျသွားလေ သည်။

အနီးအနားရှိ အရာအားလုံး စိစိညက်ညက်ကြေမွကုန်လေသည်။ ဆရာတော် ကား ဘာမှမဖြစ်။ လဲရာမှဖုတ်ခါကာ ပြန်ထလာပြီး စင်္ကြံလျှောက်မြဲ လျှောက်နေလေ သည်။

## အံ့ဖွယ်များ

၁၉၆၅ နောက်ထပ်နှစ်ပေါင်း ၂၀ ကျော်၍ အေဒီ ၁၉၆၅ (၁၃၂၆ ခုနှစ်)တွင် ဆရာတော် ပျံလွန်သောအခါ ချက်ခြင်းပင် လျှပ်စီးလက်လေသည်။ ကျိန်းစက်နေသော ကျောင်း တော်မှ သက်တံရောင်အတန်း တစ်တန်း ပျံတက်သွားလေသည်။ ကျေးငှက်အားလုံး ရုတ်ရုတ်သဲသဲမြည်တွန်ကြလေသည်။ ကောင်းကင်တစ်ခုလုံးမှာလည်း ကြေးစည် သံများ၊ ရေကင်းသံများ၊ ခရုသင်းမှုတ်သံများ ထူးခြားစွာ ဆူညံနေလေသည်။ ကျောင်း အတွင်းရှိ ပန်းပင်များလည်း အချိန်အခါမဟုတ်ဘဲနှင့် ဖူးပွင့်လျက် ကျောင်းတော် ဘက်ဆီသို့ ညွှတ်ကာ ကိုင်းကာနေလေသည်။ သက်တော် ၄၅ နှစ်ရှိသော ဇောဓိပင်ကြီး သည်လည်း နေ့ချင်းညချင်းမှာပင် အရွက်များ ကြွေကျလျက် ခြောက်သွေ့သွားသည်ကို တအံ့တသြ တွေ့မြင်ကြရ လေတော့သည်။

## ဇာတိ

ဆရာတော်သည် ဟံသာဝတီခရိုင်၊ သံလျင်မြို့နယ်ရှိ ဖားကူးရွာ၊ ဝင်းခရွာအနီးက ဂုံညှင်းစု အမည်ရှိသော ရွာသားဇာတိဖြစ်သည်။

## ဖွား

၁၈၇၃ အေဒီ ၁၈၇၃ ခု၊ ဖေဖော်ဝါရီလ ၂၈ ရက်၊ (၁၂၃၄ ခုနှစ်၊ တပေါင်းလဆန်း၂ ရက်၊ သောကြာနေ့) နံနက် ၈ နာရီမှာ ဖွားတော်မူသည်။



**ခန္ဓာဝန်ချ**

၁၉၆၄ အေဒီ ၁၉၆၄ ခု၊ စက်တင်ဘာလ ၁၉ ရက်၊ အင်္ဂါနေ့ (၁၃၂၆ ခုနှစ်၊ တော်သလင်းလဆုတ် ၈ ရက်နေ့) ညနေ ၆ နာရီ ၄ မိနစ်တွင် ပျံလွန်တော်မူသည်။

အထက်ပါ အစမ်းစာကလေးသဖွယ် တိုထိရေးသားခဲ့သည်မှာ ငယ်စဉ်အခါကဖြစ်ပါသည်။ ၁၉၇၈ ခုနှစ်ကဖြစ်သဖြင့် နှစ်ပေါင်း ၂၀ ကြာညောင်းခဲ့ပြီဖြစ်ပါသည်။ ထိုစဉ်ကတည်းက ဤစာပြုသူသည် ရဟန္တာနှင့် ရဟန်းထူးများ မဟာရုပ်ပုံလွှာကို စုဆောင်းခဲ့ပါသည်။

နောင်သောအခါ မိုးညှင်းဆရာတော်ဘုရားကြီးအကြောင်းကို ထပ်မံလေ့လာစုဆောင်းခဲ့ရပြန်ပါသည်။

(ကျမ်းကိုး၊ မောင်ပန်းမွေး၊ ကမ္ဘာ့ရှင်ဘုရင်၊ ၂၀၀၃ ခု၊ နိုဝင်ဘာလ ပထမအကြိမ်၊ မဥ္ဇူသကစာပေ၊ စာ၊ ၁၆ -၂၄၊ မောင်ပန်းမွေး၊ မိုးညှင်းသမ္ဗုဒ္ဓေဆရာတော်၊ ဓမ္မကြေးမုံ စာစောင်၊ ၁၉၇၈ ခုနှစ်၊ ဇူလိုင်လ ၁၇ ရက်နေ့၊ အတွဲ ၁၊ အမှတ် ၂ စာမျက်နှာ ၂၃၄)။

**မိုးညှင်း မဟာထေရုပ္ပတ္တိရုပ်ပုံလွှာ**

၁၉၃၉ ဒုတိယကမ္ဘာစစ်ကြီးအကြောင်းကိုစပ်လျဉ်း၍ တွေးတောတိုင်း စစ်အတွင်းအတွေ့အကြုံရှိခဲ့သော ကျွန်ုပ်တို့မှာ သမ္ဗုဒ္ဓေနှင့်စပ်လျဉ်း၍ ကျေးဇူးဂုဏ်ကို အစဉ်ဦးထိပ်ထားကြပါသည်။ မိုးညှင်းသမ္ဗုဒ္ဓေ စေတီတော်ကြီး စတင်တည်ထားခဲ့သော ခုနှစ်မှာ ၁၃၀၁ ခု ဒုတိယဝါဆိုလဆန်း ၅ ရက် (၂၀ဇူလိုင် ၁၉၃၉)ကြာသပတေးနေ့ ဖြစ်ပါသဖြင့် မိုးညှင်းဆရာတော်ဘုရားကြီးမှာ ထိုအချိန်က သက်တော် ၇၂ နှစ်ရှိသည်ဖြစ်ပါသည်။

၁၉၁၁ မိုးညှင်းတောရသို့ မိုးညှင်းဆရာတော်လောင်းလျာ ရောက်ရှိလာသည့်နေ့မှာ ၁၂၇၃ ဝါဆိုလ (ဇူလိုင် ၁၉၁၁)ဖြစ်ပါဖြင့် ထိုအချိန်က မိုးညှင်းဆရာတော်သည် မိုးညှင်းတောရ၌ သီတင်းသုံးခဲ့သည်မှာ ဝါတော် ၂၈ ဝါ ဖြစ်ပါသည်။

သမ္ဗုဒ္ဓေစေတီတော်မြတ်ကြီး ပထမဆုံး ဗုဒ္ဓဘိသေက အနေကဇာတင်သော အချိန်တွင် အရှင်မြတ်ကြီး၏ မွေးနေ့တော်မှာ ( ၇၃ ) နှစ်မြောက်ရှိပြီဖြစ်ပါသည်။

၁၉၃၉ ၁၃၀၁ ခု ဝါခေါင်လဆုတ် ၅ ရက် ( ၁၉၃၉ ခု စက်တင်ဘာလ ၃ ရက် ) တနင်္ဂနွေနေ့တွင် ဗြိတိသျှနန်းရင်းဝန်ကြီး ချိန်ဘာလိန်က ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပြီဟူ၍ ကမ္ဘာသို့ အသိပေး ကြေညာလိုက်ပါသည်။

၁၉၄၁ စစ်မီးသည် အာရှတိုက်သို့ ကူးစက်လာခဲ့ရာ ၁၃၀၃ ပြာသိုလဆန်း ၇ ရက် ( ၂၃ ဒီဇင်ဘာ ၁၉၄၁) အင်္ဂါနေ့တွင် ဂျပန်လေယာဉ်များသည် ရန်ကုန်မြို့ကို စတင်ဗုံးကြဲပါသည်။

ထိုအခါ လူများသည် ထိတ်ထိတ်ပျာပျာဖြစ်ကုန်ကြသည်။ ဗုံးဘေးမှ ဝေးရာဝေးကြောင်း ပြေးကြသည်။ အချို့သည် စစ်ကိုင်းတောင် မင်းကွန်းတောင်သို့ရောက်ကြ၏။ အချို့သည်ကား မိုးညှင်းတောရသို့ရောက်သွားကြ၏။ ရောက်သမျှကို လက်ခံ၍ မိုးညှင်းအရှင်မြတ်ကြီးသည် သာသနာ့ အနှစ်သာရများ ဟောပြောကာ သာသနာပြုခဲ့လေသည်။ ဘုရား တရားသံကို နာခံရင်း စစ်၏ အနိဋ္ဌာရုံများကိုကျော်လွှားနိုင်ခဲ့ကြပေသည်။

**စစ်မီးကြီးဝိုင်းနေသော မိုးညှင်းသမ္ဗုဒ္ဓေအကြောင်းသည် အံ့ဩ၍ မကုန်နိုင်တော့ပေ။**



ထိုအချက်ကို မိုးညှင်းထေရုပ္ပတ္တိကျမ်းပြုဆရာတော်က အောက်ပါအတိုင်း မှတ်တမ်းတင်ထားပါသည်။

> တစ်ခုသောနေ့တွင် ပဋ္ဌာန်းအဓိပတိဓမ္မာရုံကြီးပေါ်၌ မိုးညှင်းအရှင်မြတ်နှင့် သံဃာတော်များသည် ယောဂီပရိသတ်တို့အား အေးငြိမ်းစွာ တရားဟောကြားပြသနေ၏။ ထိုအချိန်တွင် ကောင်းကင်မှ ဖြတ်သန်းသွားသော လေယာဉ်တစ်စင်းသည် ရုတ်တရက် ဗုံးသုံးလုံးကြဲချလိုက်၏။ မြင်သူတို့မှာ အသက်ထွက်သွားပြီထင်ရလောက်အောင် ထိတ်လန့်တုန်လှုပ်ကုန်ကြသည်။ သို့သော် ထိုဗုံးများသည် ပေါက်ကွဲခြင်းမရှိဘဲ သမ္မုဒ္ဒေစေတီတော်မြတ် တည်ထားရန်ပုံထားသော သဲပုံထဲ၌ စုပ်ခနဲ နစ်မြုပ်သွားသည်။ အသံမမြည်သဖြင့် အနီးရှိလူ အကုန်ပင်မသိလိုက်ကြ။ တရားပွဲကား ဟောမြဲဟော လျက်ပင်ရှိသည်။ အကယ်၍ ထိုဗုံးသုံးလုံးသာ ပေါက်ကွဲလိုက်ပါက တည်ဆဲ သမ္မုဒ္ဒေစေတီတော်မြတ်ကြီးနှင့် အနီးရှိ ပရိသတ်တို့အတွက် မတွေးရဲအောင်ပင် ရှိပါတော့သည်။

ထို့ထက် အံ့ဖွယ်ကောင်းသော ဖြစ်ရပ်တစ်ခုကို ဖော်ပြပါမှ သင့်တော်ပါလိမ့်မည်။ ထိုအချက်ကား အခြားမဟုတ် မိုးညှင်းဆရာတော်ဘုရားကြီးကို ဗုံးမှန်သောကိစ္စကြီး ဖြစ်ပါသည်။ အနီးအပါးမှာ ကျခြင်းလည်းမဟုတ်၊ အဝေးမှကျခြင်းလည်းမဟုတ်၊ လူကို တည့်တည့်မှန်ခြင်း ဖြစ်ပါသည်။ ဖတ်ကြည့်ပါ။

> ထိုဖြစ်ရပ်မှာ ဒုတိယကမ္ဘာစစ်ကြီး ပြီးခါနီး တစ်ခုသောနေ့ကဖြစ်၏။ ထို့နေ့ နေ့လယ်တစ်နာရီအချိန်တွင် မိုးညှင်းအရှင်မြတ်သည် တရားဆင်ခြင်ရင်း စင်္ကြံလျှောက်လျက်ရှိနေ၏။ ထိုအချိန်တွင် အုပ်အုပ်ဆိုင်းဆိုင်း ညိုမှိုင်းလျက်ရှိသော မိုးညှင်း သမ္မုဒ္ဒေကျောင်းတိုက်အနီး၌ ဂျပန်စစ်တပ်များ ခိုအောင်းနေမည်ထင်သဖြင့် တစ်ဖက်စစ်တပ်မှ စစ်အမြောက်ကြီးများဖြင့် လှမ်း၍ပစ်လိုက်ရာ တစ်ခုသော အမြောက်ဆံသည် မိုးညှင်းအရှင်မြတ်ကြီး သီတင်းသုံးလျက်ရှိသော ကျောင်းတိုက်ကြီးဆီသို့ တစ်ဟုန်ထိုး ဓွပ်ဝင်လာသော ဒိုင်းခနဲ ဝုန်းခနဲ ပေါက်ကွဲသွားလေသည်။ မိုးညှင်းအရှင်မြတ်သည် ရပ်လျက်စင်္ကြံလျှောက်ရာမှ ပွဲခနဲထိုင်လျက်သားဖြစ်သွားရ၏။ ထိုအခါ ဟင်း လူကမကြောက်ဘဲ သွေးက ဘာလို့ကြောက်ရတာလဲဟု အားခဲကာ ကုန်းထလိုက်စဉ် အကာအရံတွေပေါက်ပြဲ၍ အလင်းရောင်တွေ ဝင်းနေသည်ကို မျက်စိဝါးနေသည့်ကြားမှ မြင်လိုက်ရသဖြင့် မိမိဘာမှမဖြစ်သည်ကို သိစေလိုသည့်အတွက် ကပ္ပိယဒကာတို့လာကြပါကွယ်လို့ လှမ်း၍ခေါ်လိုက်ရသည်။ ကပ္ပိယနှင့် ဒကာအားလုံး ပရိသတ်တို့မှာ မီးခိုးလုံးကြား၌ ဝိုးတဝါးဖြစ်နေသော အရှင်မြတ်ကို ရုတ်တရက်မြင်ရသော် ဆရာတော်ကြီးတော့ ထိမှန်ပြီထင်ပါရဲ့ ဒီတစ်ခါတော့ ခက်တာပါပဲ ပျံတော်မူမှာလေလားဟု ညည်းတွား အော်ဟစ်လျက်ပြေးလာကြသည်။ အနီးသို့ရောက်၍ သေသေချာချာကြည့်သောအခါ သစ်စ သံစ ဘာမျှ မထိမှန် မရှဘဲ မားမားကြီးရပ်နေသော အရှင်မြတ်ကြီးအား တွေ့မြင်ရသဖြင့် ဝမ်းသာအားရ မ,ချီ၍ ကျောင်းသို့ပို့ကြရသည်ဟု ဆိုပါသည်။

ဇင်းအပြင် မိုးညှင်းဆရာတော်ဘုရားကြီး၏ ဂုဏ်ကျေးဇူးကို ဖော်ပြရလျှင် ဂျပန်တိုင်းရင်းသားစစ်သည်များအကြောင်း ဖော်ပြမှ ထင်လွယ် မြင်လွယ် ရှိပါလိမ့်မည်။ စောစောက ဘယ်လိုဘုန်းကြီးအမျိုးအစားမှန်း မသိသဖြင့် သူလို ကိုယ်လို လူရိုးရိုးအောက်မေ့ကာ အပေါ်စီးနှင့်လာကြသော နိုင်ငံ



ရပ်ခြား တိုင်းတစ်ပါးသားများပင် ဘုရား၏ဂုဏ်တော်၊ တရား၏ဂုဏ်တော်၊ သံဃာ၏ဂုဏ်တော်ကို မခံနိုင်ကြကြောင်း မိုးညှင်းဆရာတော်ဘုရားက အောက်ပါအတိုင်း သက်သေပြခဲ့ပါသည်။ ဖတ်ကြည့်ပါ။

ဒုတိယကမ္ဘာစစ်အတွင်းကဖြစ်၏။ မုံရွာမြို့သို့ တာဝန်အရရောက်ရှိလာသော ဂျပန်စစ်အရာရှိသည် စစ်ပုန်းသူ လူပေါင်း နှစ်ထောင်နီးပါးရှိသည်ဟု သတင်းရထားသော မိုးညှင်းသမ္ဗုဒ္ဓေကျောင်းတိုက်အတွက် ရတက်မအေးရှိနေ၏။ သို့ဖြစ်၍ ကျောင်းတိုက်အုပ်ချုပ်သူ မိုးညှင်းအရှင်မြတ်နှင့် တွေ့ဆုံရန် မြို့ခံလူကြီးများအား အလျင်စာဖြင့် ဆက်သွယ်စေသည်။ စာထဲ၌ မိမိလာမည့် အစီအစဉ် အချက်အလက်များကိုလည်း ဖော်ပြထား၏။ ယင်းတို့မှာ - (၁) ဦးထုပ်မချွတ်ဘဲ လက်နက်ပါလျက်ဝင်မည်၊ (၂) အရိုအသေမပေး(ရှိမခိုး)ဘဲ ဝင်တွေ့ခွင့်ပြုရမည်၊ (၃) ကုလားထိုင်ဖြင့် တန်းတူထိုင်မည် စသည်တို့ဖြစ်သည်။ မြို့ခံလူကြီးများမှာ ထိုအချက်များအတွက် မလွဲသာ မရှောင်သာ မျက်နှာပူလျက်ဖြင့်ပင် အရှင်မြတ်ထံလျှောက်ထားရလေသည်။ မိုးညှင်းအရှင်မြတ်သည် ဝန်လေးနေသော မြို့ခံနေ လူကြီးများ စိတ်ချမ်းသာစေရန် ထိုကိစ္စအလေးအနက်မထားအားသဖြင့် "သူ စိတ်ချမ်းသာသလို လာလိုတဲ့ အချိန်လာပါစေ" ဟူ၍ အမိန့်ရှိလိုက်လေသည်။

နောက်တစ်ရက် ထိုစစ်အရာရှိကြီး လာသောအခါ ပါလာသူ မြို့ခံလူကြီးပါ တအံ့တသြ ဖြစ်ကြရပါတော့သည်။

**ထိုစစ်အရာရှိသည် မိုးညှင်းအရှင်မြတ်အား မမြင်ရမီ အပေါက်ဝင်ကပင် ဦးထုပ် ဖိနပ်ချွတ်ခဲ့ခြင်း၊ အရှင်မြတ်ကိုတွေ့လျှင် မြန်မာများကဲ့သို့ပင် အောက်၌ပင် ထိုင်နေခြင်းတို့ကို တွေ့ရသောကြောင့်ဖြစ်လေသည်။**

မိုးညှင်းအရှင်မြတ်နှင့် အပြန်အလှန် နှုတ်ဆက်စကား ပြောဆိုပြီးသောအခါ ကြည်သာစွာဖြင့် အကျွန်ုပ်တို့ နိပ္ပွန်လူမျိုးများ စစ်နိုင်အောင် ဆုတောင်းပေးပါဟု လျှောက်လေလျှင် မိုးညှင်းအရှင်မြတ်ကလည်း ကောင်းပါပြီ အားလုံးချမ်းသာအောင် မေတ္တာပို့ပေးပါမယ်ဟု ပရိယာယ်အားဖြင့် ဖြေကြားလိုက်သည်။ ထို့နောက် ထိုစစ်အရာရှိသည် စကားပြန်နှင့်အပြန်အလှန်ပြောဆိုကာ မိုးညှင်းသမ္ဗုဒ္ဓေကျောင်းတိုက်အတွက် မည်သို့မျှ မေးမြန်းခြင်းမပြုဘဲ ပြန်သွားလေသည်ဟူ၍ သိရပါသည်။

(ကျမ်းကိုး၊ မိုးညှင်းသမ္ဗုဒ္ဓေ စေတီယကထာ စာမျက်နှာ ၂၆၇ ၂၆၈)

မိုးညှင်းသမ္ဗုဒ္ဓေလောင်းလျာ အရှင်သုမန ကိုယ်တော် ပထမဆုံး တောရဆောက်တည်သောအခါ သိက္ခာ ၁၇ ဝါ ရပြီးဖြစ်ကြောင်းသိရပါသည်။ ထိုအချိန်၌ မန္တလေးနေပြည်တော်ကြီးကို ကျောခိုင်း၍ မြစ်ငယ်မြို့မှ တစ်ဆင့် အဲဗျမက္ခရာတောရ စခန်းဆီသို့ တစ်ပါးတည်း လှမ်းထွက်တော်မူခဲ့ကြောင်း သိရပါသည်။

ထိုအဲဗျမက္ခရာတောရမှာ မန္တလေး - ကျောက်ဆည် သွားရာလမ်းရှိ မြစ်ငယ်မြို့အနီးတွင် ဖြစ်သည်။ မြစ်ငယ်မြို့သို့ရောက်သောအခါ မြို့အလွန်ဝဲဘက် ကားလမ်းခွဲအတိုင်း လိုက်သွားရသည်။ ထိုကားလမ်းမမှ တစ်ဖန် လှည်းလမ်းခရီးဖြင့် တစ်မိုင်ကျော်ကျော်မျှ ဆက်သွားရသည်။ ထိုသို့ တစ်မိုင်ကျော်ခန့်ဆက်သွားလိုက်လျှင် စေတီတန်ဆောင်း သစ်ပင်ကြီးငယ်အပေါင်းတို့ဖြင့် ညို့မှိုင်းအုပ်ဆိုင်းလျက်ရှိသော အဲဗျမက္ခရာရွာကို တွေ့ရလေသည်။

ထိုအခါ တောထွက်လာသော မိုးညှင်းဆရာတော်လောင်းလျာ သီတင်းသုံးတော်မူသည်။

(ကျမ်းကိုး၊ ယင်း စာ ၉၈)

ထိုနေရာတွင် ညဉ့်ဦးယံခါ ဘုရားရှိခိုး မေတ္တာပို့ပြီးမှ ၃ နာရီစီကြာမျှ ရုက္ခမူစုတင်နှင့် အဗ္ဘော



ကာသိက ခုတင်တို့ကို အားထုတ်ဆောက်တည်ပါသည်။ သုသာန်ခုတင်ကို ဥပုသ်နေ့များတွင် အဲဗျမကွရာ သုသာန်သို့သွား၍ ညလုံးပေါက် ဆောက်တည်သည်ဟုသိရပါသည်။

ထိုခုတင် အကျင့်များ မဆောက်တည်မီ ရှေးဦးစွာ ဘုရားရှိခိုးခြင်း၊ မေတ္တာပို့ခြင်း၊ အမျှဝေခြင်း မေတ္တာရပ်ခံခြင်းတို့ကိုလည်း နေ့စဉ်ပြုလုပ်သည်ဟုသိရပါသည်။ မည်သို့ ပြုလုပ်ပုံကို အတုယူစရာ အောက်ပါအတိုင်းတွေ့ရပါသည်။

> "ငါတို့သည် ပြုအပ်ကုန်သော ကုသိုလ် အမျိုးမျိုးတို့၏ အဖို့ဘာဂ ဟူသမျှတို့ကို ဤအရပ်တို့၌လည်းကောင်း၊ ခပ်သိမ်းသော အရပ်ဆယ်မျက်နှာတို့၌လည်းကောင်း နေထိုင်တော်မူကြကုန်သော ခပ်သိမ်းသော အစောင့်အရှောက် သူတော်ကောင်း အစရှိသော ပုဂ္ဂိုလ်အပေါင်းတို့အား အထူးသဖြင့် အမျှပေးဝေပါ၏ အထူးသဖြင့် အမျှပေးဝေပါ၏ အားလုံးသော သူတော်ကောင်းအပေါင်းတို့သည် အကျွန်ုပ်တို့ ပေးဝေသော ကုသိုလ်အဖို့တို့ကို အမျှရကြ၍ ချမ်းသာကြပါစေ၊ ချမ်းသာကြပါ စေကုန်သတည်း။ တစ်ဆင့်ထက် တစ်ဆင့် မြင့်သည်ထက်မြင့်သော ချမ်းသာသုခတို့ကို ရကြပါစေကုန်သတည်း"

(ကျမ်းကိုး၊ ယင်း စာ ၁၀၀ )

ဤကား မိုးညှင်းဆရာတော်ဘုရားကြီး၏။ အမျှဝေခြင်းဖြစ်၏။ ကျင့်စဉ်ကြီးလည်းဖြစ်၏ဟု သိရပါသည်။ အမျှဝေပြီးသောအခါ အောက်ပါ မေတ္တာရပ်ခံချက်ကြီးကိုလည်း ရွတ်ဆို၍မေတ္တာရပ်ခံတော်မူပါသည်။

> "အို သူတော်ကောင်း နတ်ကောင်းနတ်မြတ်အပေါင်းတို့ ငါသည် အသင်တို့၏အကျိုး စီးပွားကိုလိုလားတောင့်တပြီး ကိုယ်တိုင်ရွက်ဆောင်ပေးလိုသဖြင့် ဤနေရာ ဤအရပ်သို့ လာရောက်နေထိုင်ခြင်းဖြစ်ပေသည်။ သင်တို့၏ မိတ်ဆွေအဖြစ်နှင့်ဖြစ်စေ၊ မိဘ အဖြစ်နှင့် ဖြစ်စေလာရောက် နေထိုင်ခြင်းဖြစ်ပေသည်။ သင်တို့က ငါ့ကို အမိအဘ အဆွေအမျိုးအရာထား၍ စောင့်ရှောက်ကြ။ အနှောင့်အယှက်အန္တရာယ်မပြုကြနှင့်။ ငါကလည်း သင်တို့ကို ဆွေမျိုးရင်းချာ ဉာတကာအရာထား၍ စောင့်ရှောက်မည်။ မေတ္တာပို့မည်။ နေ့စဉ် ကုသိုလ်အဖို့ အမျှပေးဝေမည်။ ငါသည် လောကအကျိုး သာသနာ့အကျိုးကို ဆောင်ရွက်ရန် ဤနေရာကို လာရောက်နေထိုင်ခြင်းဖြစ်သည်။ ဝိုင်းဝန်း ကူညီစောင့်ရှောက်ကြပါကုန်လော့"

(ကျမ်းကိုး၊ ယင်း စာ ၁၀၀)

ဤကား မိုးညှင်းဆရာတော်ဘုရားကြီး၏ လက်သုံးတော် မေတ္တာရပ်ခံချက်ကြီးဖြစ်၏။ ကျင့်စဉ်ကြီးလည်းဖြစ်၏။

မထေရ်မြတ်သည် ထိုတောကျောင်းကလေး၌နေစဉ် အနီး၌ ကပ္ပိယကာရက အစောင့်အရှောက် လည်းမထား။ မိမိတစ်ပါးတည်းသာဖြစ်သည်။ တစ်ပါးတည်းဖြစ်သော်လည်း ကျန်းမာရေးကောင်းမွန် သဖြင့် ကိုယ်စိတ်နှစ်ဖြာအလွန်ချမ်းသာသည်။ ကမ္မဋ္ဌာန်းအလုပ်ကို ပျက်ရက်မရှိ အားထုတ်နိုင်သည်ဟု ဆိုပါသည်။

## အာယုဝဍ္ဎနဆေးတော်ကြီး

ကျန်းမာရေးအတွက် ဆေးဝါးတို့ကို အထူးရှာကြံသုံးဆောင်မနေရ။ နေ့စဉ်နံနက် ၄ နာရီတွင် တစ်ကြိမ်၊ ည ၁၂ နာရီတွင် တစ်ကြိမ်၊ အုန်းမှုတ်ခွက်ကြီးတစ်လုံးဖြင့် ရေအပြည့်ထည့်၍ အဝသောက် လေ့ရှိသည်။ ဤကား အာယုဝဍ္ဎန ဆေးတော်ကြီးဖြစ်ကြောင်းပြောစမှတ်ပြုကြပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၁၀၁ )



၁၉၀၄ ၎င်းနောက် ၁၂၆၅ (၁၉၀၄)ခုနှစ်တွင် မုံရွာမြို့ အနောက်ဘက်ရှိ လက်ပံတောင်းတောင်သို့ သွားရောက်အား ထုတ်ခဲ့ပြန်လေသည်။ ဤသည်မှာလည်း မုံရွာမြို့ လယ်တီဆရာတော်ဘုရားကြီး၏ ညွှန်ကြားချက်ဖြစ်၏။ လက်ပံတောင်းတောင်မှ တစ်ဖန်ပြန်ကြွလာခဲ့ပြန်၏။ ၎င်းနောက် လယ်တီဆရာတော်ဘုရားကြီး၏ လမ်းညွှန်ချက်ဖြင့် ကျင့်ကြံအားထုတ်ပြန်၏။

(ကျမ်းကိုး။ ယင်း စာ ၁၁၀)

လယ်တီအရှင်မြတ်ကြီးသည် သာစုခေါ်တော်မူပြီးလျှင် တိုက်အုပ်ဆရာတော် ဦးဉာဏောဘာသ (နောင်အခါ ဒုတိယ လယ်တီဆရာတော်) အားခေါ်တော်မူ၍ အရှင်သုမနမထေရ်မြတ်ကို မုံရွာမြို့မှ အရှေ့တောင်လိုက်ပို့ပေးရန် မိန့်ကြားတော်မူလိုက်လေသည်။

တိုက်အုပ်ဆရာတော် ဦးဉာဏောဘာသသည် ရန်ကုန်မြို့ နော်မံကျောင်းကြီးတိုက်မှ ကြွရောက်လာသော ပုဂ္ဂိုလ်ဖြစ်၏။ သေက္ခတောင် ဦးတိလောက၏ လမ်းညွှန်ချက်အရ ရောက်လာခြင်း ဖြစ်ကြောင်းသိရပါသည်။

(ကျမ်းကိုး။ လယ်တီ ဦးလှပိုင်၊ ပခန်း သာသနာဝင်၊ စာ - ၂၇၅ )

တိုက်အုပ် ဦးဉာဏောဘာသသည် မိုးညှင်းမထေရ်မြတ်အား ဤမြေနဲတောရသို့ ပို့ဆောင်ပြီးလျှင် အနီးရှိ မြေနဲရွာ အောင်သာရွာမှ သိက္ခမ်းသူ ဒါယကာများကို ခေါ်ယူဆက်သွယ်ပေးပြီး မိမိနေရာ မုံရွာလယ်တီသို့ နေ့ချင်းပင် ပြန်ကြွသွားလေသည်။

(ကျမ်းကိုး။ ယင်း စာ ၁၁၁)

မိုးညှင်းဆရာတော်ကြီး မိမိကိုယ်ကိုမိမိ မိုးညှင်းဆရာတော်ဟူ၍ သုံးနှုန်းလေ့မရှိဘဲ မိုးညှင်းကိုယ်တော်ဟူလည်းကောင်း၊ မိုးညှင်းကိုယ်တော်ကြီးဟူ၍လည်းကောင်း သုံးနှုန်းလေ့ရှိကြောင်း သိရှိရပါသည်။

မိုးညှင်းဆရာတော်၏ အံ့ဖွယ်ဖြစ်ရပ်မှန်များမှာ ယနေ့တိုင် မညှိုးမမှိန်ဘဲ ခေတ်တွေပြောင်းလည်း ကြည်ညိုစရာ တစ်မျိုးတိုး၍တိုး၍ ဖြစ်နေပြန်ပါသည်။

(ကျမ်းကိုး။ ယင်း စာ ၁၁၇-၁၁၈)

အရှင်မြတ် ဆယ်နှစ်တာ အမိဋ္ဌာန်ပြု အားထုတ်ချိန်ကာလအတွင်း၌ အောက်ပါ ကျမ်းစာ မူကြီးသုံးကျမ်းကို ဖြစ်ပေါ်စေနိုင်ခဲ့ပါသည်။ ယင်းတို့မှာ -

(၁) ဝိသုဒ္ဓိကျင့်စဉ်ကျမ်းကြီး၊

(၂) ပဋိစ္စသမုပ္ပာဒ် ကျင့်စဉ်ကျမ်းကြီး၊

(၃) ဝိပဿနာအလုပ်ပေးကျင့်စဉ်ကျမ်းကြီးတို့ဖြစ်သည်။

**ပထမ ကျမ်းစာ**

၁၉၂၄ ထိုကျမ်းကြီးအားလုံးကိုပင် နောင်အခါ၌ ကျမ်းစာအုပ်အဖြစ်သို့ ရောက်ရှိလာလေသည်။ ယင်းတို့တွင် "ဝိသုဒ္ဓိကျင့်စဉ်ကျမ်းကြီး"မှာ အရှင်မြတ်၏ ပထမဆုံးလက်ရာ ကျမ်းစာဖြစ်သည်။ စာမျက်နှာ ၂၁၃ ရှိ ဆိုက်ကြီးဖြစ်သည်။ အေဒီ ၁၉၂၄ (၁၂၈၅ ခုနှစ်)တွင် မုံရွာမြို့၌ တိုင်းလုံးမိတ်ဆွေ ပုံနှိပ်တိုက်မှရိုက်နှိပ်သည်။



## ဒုတိယ ကျမ်းစာ

၁၉၂၇ ပဋ္ဌိစ္စသမုပ္ပါဒ် ကျင့်စဉ်ကျမ်းမှာ ဒုတိယကျမ်းစာဖြစ်သည်။ အေဒီ ၁၉၂၇ (၁၂၈၉ ခုနှစ်)တွင် ကျမ်းစာအဖြစ်သို့ရောက်သည်။

## တတိယ ကျမ်းစာ

၁၉၂၉ ဝိပဿနာ အလုပ်ပေးကျင့်စဉ်ကျမ်းကြီးကား တတိယမြောက် ကျမ်းစာဖြစ်သည်။ ယင်းလည်း စာမျက်နှာ ၄၉၄ ရှိ ဆိုက်ကြီးပင်ဖြစ်သည်။ အေဒီ ၁၉၂၉ (၁၂၉၁ ခုနှစ်)တွင် ကျမ်းစာအဖြစ်သို့ရောက်သည်။

ထိုကျမ်းစာမူများကိုပါယူဆောင်လျက် ကျေးဇူးရှင်လယ်တီဆရာတော်ကြီးထံသို့ ဓမ္မပူဇာဖြင့် သွားရောက်ပူဇော်ပါသည်။

၁၉၃၁ ထိုစဉ်က လယ်တီဆရာတော်ဘုရားသည် ထိုနှစ် အေဒီ ၁၉၃၁ (၁၂၉၃ ခု) တွင် စစ်ကိုင်းတောင်ရိုး ဇေတဝန် လယ်တီစံကျောင်း၌ ဝါဆိုတော်မူ၍ ဝါကျွတ်အကန်တော့ခံရန်အတွက် မုံရွာလယ်တီတိုက်ကြီးသို့ ခေတ္တပြန်ရောက် နေခိုက်ဖြစ်ပါသည်။

## လယ်တီဆရာတော်၏ ချီးကျူးသံ

မိုးညှင်းအရှင်မြတ်သည် သွားရောက် ကန်တော့သောအခါ လယ်တီဆရာတော်ဘုရားကြီးမှာ "မိမိ၏ဩဝါဒအတိုင်း ဆယ်နှစ်ခရီးကို ပြီးစီးအောင် လိုက်နာအားထုတ်ပေတယ်" ဟု ဝမ်းသာအားရ ချီးကျူးတော်မူလေသည်။

မိုးညှင်းအရှင်မြတ်သည် တရားအားထုတ်ရာ၌ တွေ့ကြုံရပုံ ဉာဏ်အမြင်ပေါက်ရောက်ပုံ အလင်းဓာတ် အငြိမ်းဓာတ် ရရှိပုံတို့ကို လျှောက်ထားသောအခါ လယ်တီဆရာတော်ဘုရားကြီးက လိုအပ်သည်များကို ဆစ်ပိုင်းဆစ်ပိုင်း၍ မေးတော်မူသည်။ မေးသောအချက်များကိုလည်း မိုးညှင်း အရှင်မြတ်က ပရိယာယ်မပါ မာယာမနှောဘဲ ပကတိသဘောဖြင့် မှန်ရာကိုဖြေကြားလေသည်။ ထိုအချက်ကို အောက်တွင်ဖတ်ကြည့်ပါ။

> **လယ်တီဆရာတော်ဘုရားကြီးမှာ လွန်စွာအားရတော်မူလှ၍ "အလွန်တော်တဲ့ ပုဂ္ဂိုလ်၊ ရှာမှရှားတဲ့ အာဇာနည်ပုဂ္ဂိုလ်ပဲ" စသည်ဖြင့် ဝမ်းမြောက်စွာပင် မြွက်ဆိုချီးမွမ်းတော်မူပြီးလျှင် "ကိုင်း ငါ့ကိုယ်စား ကမ္ဘာကို သာသနာပြု ပေတော့၊ ဝိပဿနာတရားကြီးကို ယခုအားထုတ်ပုံ အားထုတ်နည်းအတိုင်း ရဟန်းရှင်လူတို့အား ဟောကြားပြသဆုံးမပေတော့ဗျာ"ဟု အမိန့်ရှိကာ မိမိရေးသား ပုံနှိပ်ပြီးစီးပြီးဖြစ်သော ဒီပနီကျမ်းအားလုံးတို့ကို ချီးမြောက်လိုက်တော်မူလိုက်သည်။ ဤကား ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ် ဆရာတပည့် ဆက်ဆံပုံဖြစ်၏။**

(ကျမ်းကိုး၊ ယင်း စာ ၁၂၆ )

၁၉၂၂ လယ်တီဆရာတော်ဘုရားကြီး အမိန့်အရ မိုးညှင်းအရှင်မြတ်သည် အေဒီ ၁၉၂၂ (၁၂၈၃ ခုနှစ်)သက်တော် ၅၀ ဝါတော် ၃၀ အရ တန်ဆောင်မုန်းလမှစ၍ နေ့စဉ်နေ့စဉ် ဟောကြားသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၁၃၄ )



၁၉၂၂ နေ့လယ် ၁၂ နာရီအချိန် မှစ၍ ဟောကြားသည်။ ထိုစဉ်က တရားဟောရန် ဓမ္မာရုံများ မရှိသေးသဖြင့် သစ်ပင်အောက်၌ ထန်းရွက်မိုး မဏ္ဍပ်ကြီးဆောက်လုပ်၍ ဟောကြားတော်မူရသည်။ ထို့နောက် တရားနာသူတို့စုပေါင်းကာ သစ်သားတိုင် ဝါးကပ်မိုး ဓမ္မာရုံတစ်ခု ဆောက်လုပ်ကြသည်။ ၁၂၈၄ (၁၉၂၂)ခုနှစ် ဝါဆိုလမှစ၍ ဓမ္မာရုံ၌ တရားဟောကြားတော်မူသည်။

(ကျမ်းကိုး၊ ယင်း စာ ၁၃၅ )

## တရားဟောပုံ ဟောနည်း

မိုးညှင်းအရှင်မြတ်သည် လူအားလုံးတို့ နားလည်ရန် ပါဠိသံကို ချွေတာသုံးပြီး မြန်မာစကားလုံးတို့ဖြင့်သာ ထပ်ကာထပ်ကာဟောကြားသည်။ ဖြည်းဖြည်းလေးလေးဖြင့် ဥပမာ ဥပမေယျများ ညှပ်ကာ အသားပါပါ ဟောကြားသည်။ မိမိတစ်ပါးတည်း ရသမျှတောက်လျှောက် ပြောသွားခြင်းမဟုတ်ဘဲ တရားနာပရိသတ်အား သတိမလစ်စေရန် ဆွဲဆောင်သောအနေအားဖြင့် တရင်းတနှီး အေးကွယ်၊ ဟုရဲ့ရဲ့ စသော အသုံးအနှုန်းတို့ဖြင့် အမေးအထောက်ပြုလုပ်၍ ဟောကြားသည်။ ဆိုလိုသော အဓိပ္ပာယ်ကို ရိုးရိုးရှင်းရှင်းနှင့် ထိရောက်အောင် ပြောဟောနိုင်သည်။ အသံတော်လည်း ကြည်လင်ပြတ်သားသည်။ အရှင်မြတ်၏ တရားကိုနာပြီးပါက ဆန်းဆန်းပြားပြားဟောကြားခြင်း ဆွဲဆွဲငင်ငင် ဟောကြားခြင်း မဟုတ်ပါဘဲလျက် ထပ်၍ထပ်၍ နာချင်စိတ်များ တိုးပွားလာသည်ဟုဆိုပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၁၃၅ )

## မမျှော်လင့်သော သတင်း

ထိုအခိုက် မမျှော်လင့်ဘဲ တိုက်ဆိုင်စွာဖြင့် လယ်တီဦးဝဏ္ဏိတ, လယ်တီဦးပဒုမ, လယ်တီသေက္ခတောင် ဦးတိလောက, လယ်တီ ဦးဥေယျ, လယ်တီပဏ္ဍိတ (ဦးမောင်ကြီး)တို့ လက်မှတ်ထိုးလျက် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး မရဏန္တိက ဝေဒနာသို့ ရောက်နေပြီဖြစ်၍ ကြွလာစေလိုကြောင်း စာရောက်လာသည်။ မိုးညှင်းအရှင်မြတ်မှာ လွန်စွာအံ့အားသင့်သွားသည်။ မိမိပူဇော်ရန် ရည်ရွယ်ထားသည့် ရည်မှန်းချက်ပျက်ရချေပြီ။

(ကျမ်းကိုး၊ ယင်း စာ ၁၃၉)

## လယ်တီဆရာတော်အား ပူဇော်ခြင်း

၁၉၂၃ မိမိဌာနသို့ ပင့်ဆောင်၍ မပူဇော်ရသော်လည်း "အသက်ရှင်လျက်ရှိသော အရှင်မြတ်အား ဓမ္မပူဇာဖြင့် အချိန်မီသွားရောက်ကာ ပူဇော်ပါအံ့"ဟု သဘောပိုက်ကာ စာရောက်၍ မကြာမီ တရားနာယူရန် စောင့်ဆိုင်းမျှော်လင့်လျက်ရှိသော တိုက်တွင်းရှိ ပရိသတ်တို့အား ဖယ်ထားခဲ့လျက် အေဒီ ၁၉၂၃ (၁၂၈၅ ခုဝါဆိုလဆန်း (၈) ရက်နေ့)တွင် ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားရှိရာ ပျဉ်းမနားသို့ အမြန်ကြွတော်မူလေသည်။

(ကျမ်းကိုး၊ ယင်း စာ ၁၃၉ )

**မိုးညှင်းအရှင်မြတ်သည် ပျဉ်းမနား၌ရှိစဉ် လယ်တီဆရာတော်ဘုရားကြီးအား ဓမ္မပူဇာဖြင့် ပူဇော်သောအားဖြင့် နေ့တိုင်း အနတ္တဒီပနီကျမ်းစာကို ဖတ်ကြားပြလေသည်။ ထိုအခါ လယ်တီဆရာတော်ဘုရားက ဝမ်းမြောက်ဝမ်းသာ ကြားနာတော်မူသည်။**



## လယ်တီဆရာတော်၏ တပည့်ကြီးများ

၁၉၂၃ လယ်တီဆရာတော်ဘုရားကြီး ထိုသို့ နာမကျန်းရှိနေစဉ် တပည့်များဖြစ်ကြသော လယ်တီ ဦးဝဏ္ဏိတ၊ လယ်တီ ဦးပဒုမ၊ လယ်တီ ဦးဥေယျ၊ လယ်တီ သစ်ကျွဲတောင် ဦးတိလောက၊ လယ်တီပဏ္ဍိတ (ဆရာမောင်ကြီး)တို့ကလည်း တစ်လှည့်စီဖြင့် ပဋ္ဌာန်းပါဠိတော်ကြီးကို နေ့စဉ် ရွတ်ဖတ်ပူဇော်ကြလေသည်။ ထိုသို့ အဘိဓမ္မာ ဒေသနာတို့ကို နာခံရင်း ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် ၁၂၈၅ ခုနှစ် ပထမဝါဆို လဆန်း ၁၅ ရက်နေ့ (၂၇ ဇွန်လ ၁၉၂၃)ဗုဒ္ဓဟူးနေ့ ၂ နာရီ မိနစ် ၃၀ အချိန်တွင် ပျဉ်းမနားမြို့ လယ်တီစံကျောင်း (သူဌေးဦးလန်းတိုက်)၌ စုတိကမ္မဇရုပ်ချုပ်ငြိမ်းတော်ခဲ့လေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၁၄၀ )

မိုးညှင်းအရှင်မြတ်သည် ပြုသင့်သော ဝတ္တရားများကိုပြုစုကာ ဝါဆိုရက်နီးပြီဖြစ်သဖြင့် လယ်တီတပည့်အပေါင်းတို့အား ခွင့်ပန်ပြီးလျှင် မိုးညှင်းတောရသို့ပြန်ကြွတော်မူခဲ့ပါလေသည်။

## အဂ္ဂမဟာ ပဏ္ဍိတဘွဲ့တံဆိပ်တော်

၁၉၄၁ မိုးညှင်းအရှင်မြတ်အား အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ပေးအပ်လှူဒါန်းကြောင်း သတင်းကို ၁၃၀၂ခု ပြာသိုလဆန်း ၅ ရက် (၁၉၄၁ ခုနှစ် နှစ်သစ်ကူးမင်္ဂလာနေ့) ဗုဒ္ဓဟူးနေ့ထုတ် မြန်မာနိုင်ငံအစိုးရ ဂေဇက်တွင်ကြေညာခဲ့လေသည်။ ထိုကြေညာချက်ပေါ်ထွက်လာပြီးမကြာမီမှာပင် မြန်မာနိုင်ငံအစိုးရက ထိုအဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော် အလှူခံကြွတော်မူရန်အကြောင်း ပင့်လျှောက်လွှာလည်းရောက်ရှိလာပါသည်။

## လာရောက်ဆက်ကပ်ခြင်း

၁၉၄၁ သို့သော် မိုးညှင်းအရှင်မြတ်မှာ အသက်အရွယ်အရလည်းကောင်း ကျန်းမာရေးအခြေအနေတို့ကြောင့်လည်းကောင်း ရန်ကုန်မြို့သို့ ကြွရောက်၍ဘွဲ့တံဆိပ်တော် အလှူခံရန်ဝန်လေးလျက်ရှိလေသည်။ ထိုအခြေအနေအရပ်ရပ်ကို နိုင်ငံတော်အစိုးရက သိရှိသွားသဖြင့် မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ဥက္ကဋ္ဌဝန်ကြီးချုပ်ကိုယ်တိုင် မိုးညှင်း အရှင်မြတ်၏ခြေတော်ရင်းသို့လာရောက်ကာ ၁၃၀၃ ခု နယုန်လဆန်း ၁၃ ရက်နေ့ (၆ ရက် ဇွန်လ ၁၉၄၁ ခု)တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကြီးနှင့် "ဆာနက်" ခေါ် အမိန့်တော်စာတမ်းကို ကပ်လှူလေသည်။

ထိုဘွဲ့တံဆိပ်တော်ကပ်လှူပွဲကို ယခုပဋ္ဌာန်း အဓိပတိမွှာရုံကြီးပေါ်တွင် ရာပေါင်းများစွာသော ပရိသတ်တို့ဖြင့် ပူဇော်ပြုလုပ်သည်ဖြစ်၍ အလွန်ပင်စည်ကားလှပေသည်။

၁၉၃၉ အေဒီ ၁၉၃၉ ခု၊ စက်တင်ဘာလ ၃ ရက်၊ (၁၃၀၁ခု ဝါခေါင်လဆုတ် ၅ ရက်) တနင်္ဂနွေနေ့တွင် ဗြိတိသျှနန်းရင်းဝန်ကြီး ချိန်ဘာလိန်က ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပြီဟူ၍ ကမ္ဘာသို့အသိပေး ကြေညာလိုက်သည်။ ထိုကမ္ဘာစစ်သည် ဥရောပတိုက်မှ စတင်ဖြစ်ပွားလာရာ စစ်မီးသည် အာရှတိုက်နိုင်ငံများသို့ ကူးစက်လာသည်။

(ကျမ်းကိုး၊ ယင်း စာ ၂၅၉ )



၁၉၄၁ မြန်မာပြည်တွင် ရန်ကုန်မြို့ကို ၁၃၀၃ ခု ပြာသိုလဆန်း ၇ ရက် (၁၉၄၁ခု ဒီဇင်ဘာလ ၂၃ ရက်) အင်္ဂါနေ့တွင် ဂျပန်လေယာဉ်များမှ စတင်ဗုံးကြဲလာလေသည်။

ထို့ကြောင့် အချက်အချာကျသော မြို့ကြီးပြကြီး၌ နေထိုင်သူများသည် စစ်လမ်းနှင့်လွတ်ရာ အစွန်အဖျား တောအရပ်သို့လည်းကောင်း၊ အောက်အရပ်မှလူများသည် အထက်အညာချောင်ကျရာ အရပ်သို့လည်းကောင်း ပြောင်းရွှေ့နေထိုင်လာကြသည်။ တစ်တိုင်းပြည်လုံး ကြိမ်မီးအုံးသကဲ့သို့ဖြစ်ကာ လူအများမှာ လှုပ်လှုပ်ရွရွ ထိတ်ထိတ်ပျာပျာ ဖြစ်နေကြသည်။

ထိုအခိုက် အချက်အချာကျသော အခြားမြို့ရွာများလည်း ဗုံးကြဲချကြောင်း သတင်းများ ထပ်ကာထပ်ကာ ကြားနေရသဖြင့် ပို၍ထိတ်လန့်တုန်လှုပ်ကာ လူအများမှာ သူ့ထက်ငါ ဘေးလွတ်မည် ထင်ရာသို့ ချဉ်းကပ်ခိုလှုံ လာကြသည်။ တရားဓာတ်ခံ ရင့်သန်လိုလားသောသူတို့သည်လည်းကောင်း ထိုလူတို့နှင့် ဆက်စပ်သူ လူအများတို့သည်လည်းကောင်း မိမိတို့အားထားကိုးကွယ်ရာဖြစ်သော စစ်ကိုင်းတောင် မင်းကွန်းတောင် မိုးညှင်းတောရစသော တရားဓမ္မဟောပြသရာ ဌာနအသီးသီးတို့သို့ ခိုလှုံရောက်ရှိလာကြသည်။

ထို့ကြောင့် စစ်ကာလအတောအတွင်း မိုးညှင်းသမ္ဗုဒ္ဓေ၌ စစ်ဘေးခိုလှုံရင်း တရားဓမ္မရှာမှီးရင်း ရောက်ရှိလာသော ပရိသတ်တို့ဖြင့် ပြည့်သိပ်နေသည်။ အထက်အောက် အနီးအဝေးမှ ရောက်ရှိလာသော ပရိသတ်များ စုစုပေါင်းလိုက်ပါက တစ်ထောင့်ငါးရာကျော်နှစ်ထောင်ခန့်ပင် ရှိမည်ဖြစ်သည်။ ထိုပရိသတ်များနေထိုင်ရန် အဆောက်အအုံများပင် မလောက်ငနိုင်အောင်ရှိနေ၏။ သို့ဖြစ်၍ တချို့လည်း မိမိတို့ပြန်သွားပါက အဆောက်အအုံများကို ကျောင်းသို့လှူခဲ့မည်။ မိမိတို့နေစဉ် မိမိတို့ဘာသာ ဆောက်လုပ်နေမည်ဟု သဘောပိုက်ကာ ကိုယ့်အဆောက်အအုံနှင့် ကိုယ်ဆောက်လုပ်၍နေကြသည်။

မိုးညှင်းအရှင်မြတ်လည်း ရောက်လာသမျှသော ပရိသတ်ကြီးအား ကလေးများပါမကျန် အချိန်ကို အလကားမကုန်စေဘဲ စစ်ဘေးခိုလှုံရင်း သာသနာမှာ အထုံပါစေရန် သီလသမာဓိ ပညာဆိုင်ရာ သာသနာအနှစ်သာရ တရားအစစ်တို့ကို ဟောကြားစေသည်။ ကလေးများမှလွဲ၍ ပရိသတ်အားလုံးတို့အား အမြဲတမ်း ဥပုသ်စောင့်စေကာ ဟောသမျှ နေ့တရား ညတရားတို့ကိုလည်း မပြတ်နာကြားစေသည်။

မိုးညှင်းသမ္ဗုဒ္ဓေကျောင်းတိုက်အတွင်း ခိုလှုံရောက်ရှိသူအားလုံးတို့မှာ တရားပြီးတရား တရားပြီးတရား ထပ်ကာထပ်ကာ နာကြားနေကြရသဖြင့် စစ်အနိဋ္ဌာရုံများ တစ်စတစ်စပျောက်ကာ တရားနှင့်မွေ့လျော်သော အဖြစ်သို့ပင်ရောက်လာလေသည်။

ထို့အပြင် ထိုစစ်ကာလအတွင်းတွင် သမ္ဗုဒ္ဓေကပ်ကျော်စေတီတော်မြတ်ကြီးလည်း တည်ဆောက်ဆဲဖြစ်သဖြင့် မနက်ခင်း ညနေခင်း တရားပွဲများ ရပ်နားထားချိန်အတွင်း စေတီတော်မြတ်ကြီး တည်ဆောက်ရာသို့ စုဝေးကြကာ ဗုဒ္ဓဝေယျာဝစ္စအလုပ်များလည်း လှူဒါန်းကြရသည်။ အုတ်မှုန့်ထောင်းသူက ထောင်းရသည်။ အုတ်ချပ်သယ်သူက သယ်ရသည်။ သဲ ထုံး ကျောက်မှစ၍ လိုအပ်ရာရာများကို စုပေါင်းသယ်ပို့ကြရသည်။ သို့ဖြစ်၍ ဗုဒ္ဓဝေယျာဝစ္စကုသိုလ် အလုပ်ကြီးကို ကြုံတောင့်ကြုံခဲ ပြုလုပ်ကြရသဖြင့် လူများမှာ ပို၍ပင် ကုသိုလ်ရေး၌ မွေ့လျော်၍လာကြပါသည်။

ထို့ကြောင့် စစ်ကာလအတွင်း မိုးညှင်းသမ္ဗုဒ္ဓေကျောင်း၌ မှီတင်းနေထိုင်နေသူများမှာ သာသနာ့အနှစ်ဖြစ်သော သီလ သမာဓိ ပညာဆိုင်ရာ တရားဒေသနာများကို သေချာစွာနာကြားရခြင်း၊ သမ္ဗုဒ္ဓေကပ်ကျော်စေတီတော်မြတ်ကြီး တည်ဆောက်စဉ် ကုသိုလ်ပါဝင်ခွင့်ရလိုက်သဖြင့် ဘုရားဒကာ ဘုရားအမအဖြစ်ကို ကြုံတောင့်ကြုံခဲရရှိခြင်းတို့ကြောင့်တစ်ကြောင်း၊ တည်ဆဲ သမ္ဗုဒ္ဓေကပ်ကျော်စေတီတော်



မြတ်ကြီး၏ အနန္တတန်ခိုးဂုဏ်ကြောင့်တစ်ကြောင်း၊ မိုးညှင်းအရှင်မြတ်ကြီး၏ မေတ္တာတော်ဂုဏ်တို့ကို ခိုလှုံရခြင်းတို့ကြောင့်တစ်ကြောင်း စစ်ဘေးစစ်ဒဏ်တို့ကို ကံကောင်းထောက်မ သက်သာရာရခဲ့သည် ဟုပင် ဆိုရပေမည်။

ဘုရား တရား သံဃာ ရတနာသုံးပါးတို့၏ အရိပ်ကို ကောင်းစွာခိုလှုံလိုက်ရသည်ဖြစ်၍ စစ်ကာလ အတွင်း မိုးညှင်းသမ္ဗုဒ္ဓေ၌ မှီတင်းနေထိုင်သူမှန်သမျှ တစ်စုံတစ်ဦးမျှ စစ်ဘေးဒုက္ခအတွေ့အကြုံကို မခံစားလိုက်ကြရပေ။ တွေကြုံအံ့ ဆဲဆဲဖြစ်နေသော ဘေးအန္တရာယ်များမှပင် ကံကောင်းထောက်မ၍ ကျော်လွှန်ခဲ့ကြရ၏။ ယင်းကို ဖော်ပြလတ္တံ့သော အဖြစ်အပျက်များက သက်သေပြလျက်ပင်ရှိလေသည်၊ ဖတ်ကြည့်ပါ။

ဒုတိယကမ္ဘာ့စစ်ကြီးအတွင်းတွင် ဂျပန်စစ်တပ်များ အလုံးအရင်းဖြင့် ဝင်ရောက်တိုက်ခိုက်သဖြင့် အင်္ဂလိပ် စစ်တပ်များက တဖြည်းဖြည်း ဆုတ်ခွာလာရာ ခရီးစဉ်အတိုင်း ဆုတ်ခွာလာသော စစ်တပ်ကြီး သည် ပခုက္ကူမှ မုံရွာဘက်သို့ရောက်လာသည်။ အချို့တပ်များသည် မြစ်တစ်ဖက်သို့ကူး၍ တမူးဘက်သို့ ဆန်တက်သွားသော်လည်း စစ်သားပေါင်းသုံးထောင်ကျော်ခန့်ရှိသော စစ်တပ်ကြီးမှာ တောက်လျှောက် မဆုတ်သေးဘဲ ကားကြီးကားငယ်တို့ဖြင့် မုံရွာမြို့ အရှေ့ဘက်သို့ ချီလာသည်။ မိုးညှင်းသမ္ဗုဒ္ဓေ ကျောင်း တိုက်အနီးသို့ရောက်လာသောအခါ နေဝင်ဖျိုးဖျအချိန်ဖြစ်နေသဖြင့် ရှေ့ဆက်မသွားတော့ဘဲ ကျောင်း တိုက်ကြီးကို အကာအကွယ်ယူ၍ တစ်စခန်းချထားလိုက်သည်။

အင်္ဂလိပ်စစ်တပ်ရှိရာသို့ ဂျပန်စစ်တပ်မှလိုက်လံ ဗုံးကြဲနေသဖြင့် ကျောင်းတွင်းရှိလူအားလုံးတို့မှ ပစ်မှတ်ထဲ၌ အတူပါတော့မည်ဟု တွေးတောကာ ကြောက်ရွံ့တုန်လှုပ်လျက်ရှိနေကြသည်၊ ကြာရှည်စွာ ဆက်လက်တည်ရှိနေပါက ဂျပန်ဗုံးကြဲလေယာဉ်များ မကြာမီရောက်လာမည်မှာလည်းသေချာနေသည်။ သို့ဖြစ်၍ အရဲစွန့်ကာ ခေတ္တယာယီဖွဲ့စည်းထားသော မိုးညှင်းသမ္ဗုဒ္ဓေစောင့်ရှောက်ရေးအဖွဲ့ အတွင်း ရေးမှူး ခေါင်းဆောင်သောလူအချို့သည် အင်္ဂလိပ်စစ်တပ်မှ ခေါင်းဆောင်ဖြစ်သူနှင့် သွားရောက် ဆွေးနွေးရ၏။

စစ်ဘေးစစ်ဒဏ်ပုန်းကွယ်ရင်း တရားဓမ္မအားထုတ်နေသူများ၏ နေရာဖြစ်သည်ဟု သဘော ပေါက်သွားသဖြင့် နံနက်စောစောပင် ဤနေရာမှ ဆုတ်ခွာမည်ဟု ဝန်ခံကတိပြုကာ နောက်နေ့နံနက်၌ အင်္ဂလိပ်စစ်တပ်ကြီးသည် တကယ်ပင် ဆုတ်ခွာသွားလေတော့သည်။

ထိုအခါမှ ကျောင်းတွင်းရှိ ပရိသတ်တို့က ဘဝင်ကျလျက် စိတ်ချမ်းသာမှုကို ရရှိလေတော့ သည်ဟုဆိုပါသည်။ အကယ်၍သာ ထိုအင်္ဂလိပ်စစ်တပ်ကြီးပြောင်းရွှေ့မသွားပါက ဂျပန်စစ်တပ်မှ လာရောက်ဗုံးကြဲမည်မှာ ဧကန်ပင်ဖြစ်ပေသည်ဟု အားလုံးကယုံကြည်ကြသည်။ ထိုအခါ ကျောင်းတိုက် အတွင်းရှိ ပရိသတ် အားလုံးတို့၏ အသက်ဘေးမှာ မတွေးဝံ့အောင်ပင် ရှိလေတော့သည်။ ရတနာသုံးပါးကို ဆည်းကပ်ထား၍ ချမ်းသာမှုကိုရခဲ့သည်မှာ ငြင်း၍မရသောအချက်ပင်ဖြစ်ပါသည်။

## လွတ်လပ်ရေးရသော နေ့

၁၉၄၈ မြန်မာနိုင်ငံသည် အချုပ်အခြာ အာဏာပိုင် လွတ်လပ်ရေးရမည့် အေဒီ ၁၉၄၈ ခု၊ ဇန်နဝါရီလ ၄ ရက်၊ တနင်္ဂနွေနေ့ (၁၃၀၉ ခု ပြာသိုလဆုတ် ၉ ရက်) နံနက် ၄ နာရီအချိန်ဖြစ်၏။ အင်္ဂလိပ်အလံဖြုတ်ချ၍ မြန်မာ့အလံကြီးကို လွှင့်တင်ပေတော့ မည်ဟု အားလုံးကကြိုတင်သိထားကြလေသည်။



## လွတ်လပ်ရေးမေတ္တာပို့

မိုးညှင်းအရှင်မြတ်သည် နံနက်စောစောကပင် ကျိန်းစက်ရာမှထ၍ နံနက် ၃ နာရီ အချိန်တွင် အသင့်ပြင်ဆင်ထားသော ရုပ်ပွားတော်ရှေ့၌ ဘုရားဝတ်တက်ကာ ပုတီးစိပ်၍ မေတ္တာပို့လျက်ရှိနေသည်။ နတ် ဗြဟ္မာ အပေါင်းတို့အား ဖိတ်မန္တကပြုကာ ပရိတ်ဒေသနာများကို ရွတ်ဖတ်ဟောကြားနေလေသည်။ ၎င်းနောက် -

၁၉၄၈ လွတ်လပ်ရေးကြီး ကြေညာမည့် နံနက်(၄)နာရီတိတိအချိန်သို့ ရောက်သောအခါ အရှင်မြတ်သည် ဘုရားအာရုံပြုလျက် 'ဇယန္တော ဗောဓိယာမူလေ' စသော အောင်ဂါထာများနှင့် မြတ်စွာဘုရား ဗောဓိပင်နှင့် ရွှေပလ္လင်ကို အောင်မြင်တော်မူစဉ် ရွှေဦးစွာရွတ်ဆိုသော ဥဒါန်းဂါထာတို့ကိုလည်းကောင်း၊ 'ဇယောတိ ဗုဒ္ဓဿ သိရိ မတော အယံ' စသော ဗြဟ္မာ သိကြား နဂါး ဂဠုန်တို့ ရွတ်ဆိုကြသော ဂါထာတော်တို့ကို လည်းကောင်း၊ အတွင်းအောင်ခြင်းအပြင်အောင်ခြင်းဂါထာတို့ကိုလည်းကောင်း ရွတ်ဆိုတော်မူကာ မြန်မာ့လွတ်လပ်ရေးကို အောင်ဘိသိက်သွန်းတော်မူလေသည်။ ဤသို့ မှတ်သားခဲ့ရပါသည်။

ဤမြန်မာ့လွတ်လပ်ရေးသည် နှစ်ပေါင်း ရာထောင် သောင်းသိန်းမက တည်ရှိပါစေသား နတ်ကောင်းနတ်မြတ်တို့ စောင့်ရှောက်ပါစေသားဟူ၍လည်း သစ္စာပြုတော်မူလိုက်သည်။

(ကျမ်းကိုး၊ ယင်း စာ ၂၈၅ )

၁၉၆၂ ထူးဆန်းသော ဖြစ်ရပ်မှန်တစ်ခုကို ပြန်လည်ဖောက်သည်ချ ရပေလိမ့်ဦးမည်။ အေဒီ ၁၉၆၂ ခု (၁၃၂၄ ခုနှစ်)၏ တစ်ခုသော နေ့တစ်နေ့၊ နေ့ခင်းတွင် လှည်းတစ်စီးသည် မိုးညှင်းအရှင်မြတ် သီတင်းသုံးရာ ကျောင်းအနီးသို့ ညင်သာစွာ မောင်းနှင်ဝင်လာသည်ကို တွေ့မြင်ကြရလေသည်။

## မိကျောင်း လာရောက်ပူးမြော်ခြင်း

အရှင်မြတ် သီတင်းသုံးရာကျောင်း (ယခု ပုံတူပြတိုက်)အနီးအရောက်တွင် ရပ်တန့်၍ လှည်းပေါ်တွင်တင်လာသော နွားစားကျင်းငယ်ကို မ,ချလိုက်ကြသည်။ ထို့နောက် မိုးညှင်းအရှင်မြတ် မြင်လောက်သည့်နေရာ၌ထားကာ နွားစားကျင်းကို စောင်းငဲ့ပေးလိုက်ကြသည်။ ထိုအခါ နွားစားကျင်းတွင်ပါရှိသော မိကျောင်းငယ်တစ်ကောင်သည် လျှောဆင်းကာ မိုးညှင်းအရှင်မြတ်ဆီ ဦးတည်တွားသွား၍ မောင်းတုံးဦးကဲ့သို့ ပါးစပ်ကို ဟလျက်ဟလျက် နိမ့်ချည်မြင့်ချည်ပြုလုပ်နေသည်။

(ကျမ်းကိုး၊ ယင်း စာ ၃၀၃ )

ထိုအခြင်းအရာမှာ ထူးဆန်းလှသဖြင့် ခဏလေးအတွင်းမှာပင် ရပ်နီးရပ်ဝေး သတင်းပျံ့နှံ့သွားလျက် ကြည့်ရှုသူများလည်း ဝိုင်းအုံရောက်ရှိလာပေတော့သည်။ မိကျောင်းငယ်သည် လွှတ်ထားသော်လည်း မည်သို့မျှ အန္တရာယ်ပြုမည့်အသွင် မရှိဘဲငြိမ်၍သာနေလေသည်။ မိုးညှင်းအရှင်မြတ်အား မြင်လောက်ရာတွင် အတန်ကြာကြာထားပြီးမှ ပြန်သိမ်းယူလိုက်ကြသည်။

ထိုအကြောင်းခြင်းရာကို မေးမြန်းကြည့်သောအခါ ထိုမိကျောင်းငယ်ကို



ချောင်းဦးမြို့နယ် ကိုင်းဆယ်ရွာအုပ်စုဝင် ညောင်ပင်လှရွာသစ်မှ ရေလုပ်သား ကိုခွေး ဆိုသူ ရေလုပ်ငန်းလုပ်ရာမှ ပိုက်ကွန်တွင်းငြိပါ၍ ရရှိခြင်းဖြစ်သည်။ ကိုခွေးဆိုသူ ရေလုပ်ငန်းလုပ်ရာ ရေအိုင်မှာ ရွှေဘုံသာ ဘုရားအနီးရှိ ရေအိုင်ဖြစ်ကြောင်း၊ ထိုမိကျောင်းငယ်ကို ညောင်ပင်လှကျောင်းဆရာတော် ဦးစန္ဒိမာက အလှူခံယူ ထိန်းသိမ်းထားခဲ့ကြောင်း ပြန်ပြော၍သိရပါသည်။

ထိုစဉ်ကာလ ညတစ်ညတွင် သမ္ဗုဒ္ဓေဘုရားကြီးနှင့် မိုးညှင်းဆရာတော်ကြီးအား ဖူးချင်ပါသည်။ လိုက်ပို့ပေးပါဟု ထိုမိကျောင်းက ပြောဆိုကြောင်း ညောင်ပင်လှဆရာတော်ဦးစန္ဒိမာမှာ အိပ်မက်မြင်မက်လေသည်ဟုဆိုပါသည်။

သို့ဖြစ်၍ မိုးညှင်းအရှင်မြတ်ထံသို့ လိုက်ပို့ရကြောင်း သိရှိရလေသည်။ မိကျောင်းတွေ့ရဖို့ အလွန်ခဲယဉ်းသော အညာအရပ်တွင် မြစ်နှင့်ဝေးကွာရာတစ်နေရာမှာတွေ့သဖြင့် ထူးဆန်းမှုတစ်ခု ဖြစ်၍နေပါသည်။

(ကျမ်းကိုး၊ ယင်း စာ ၃၀၄ )

ထို့နောက် ထိုမိကျောင်းပုံအတိုင်း အောက်ခံထားပြီး အပေါ်မှ စေတီငယ်တစ်ဆူကို ထိုမိကျောင်းရသော ရေအိုင်ဘေးမှာ တည်ထားကြ၍ ဆွမ်းလောင်းပွဲများ ပြုလုပ်ကြသည်။ ထိုမိကျောင်းကိုလည်း မေတ္တာပို့အမျှဝေ၍ ချင်းတွင်းမြစ်ထဲသို့ ပို့လွှတ်လိုက်ကြလေသည်။ ဤကား မိုးညှင်းသမ္ဗုဒ္ဓေ ဆရာတော်ဘုရားကြီးနှင့် စပ်လျဉ်း၍ အချို့အဝက်တို့ဖြစ်ပေသည်။

## ကိုယ်တရားအလုပ်ကိုယ်မမေ့ကြနှင့်ဟု နောက်ဆုံးမှာကြားခဲ့

၁၉၆၄ ၁၃၂၆ခု တော်သလင်းလဆုတ် ၈ ရက်နေ့ (၂၉ စက်တင်ဘာ ၁၉၆၄) ညနေ ၆ နာရီအချိန်တွင် မိမိသည် ခန္ဓာဝန်စွန့်လွှတ်ရတော့မည်ဖြစ်ကြောင်း မိုးညှင်းဆရာတော်ကြီးက သိနှင့်နေလေသည်ဟုဆိုကြပါသည်။

'ကိုယ့်တရားအလုပ်ကို မမေ့ကြနဲ့'ဟု ညင်သာပျော့ပျောင်းသော အသံတော်ဖြင့် နောက်ဆုံးအမိန့်ရှိလိုက်သည်။ ထို့နောက် အထက်ဆီသို့ မျက်စိကို သုံးကြိမ်ဖွင့်ကြည့်၍ စဉ်းငယ်ပြန်မှိတ်ကာ စုတိစိတ်ဝီထိ အစဉ်သို့ပြောင်းလျက် ခန္ဓာဟောင်းဝန်ထုပ်ကြီး အပြီးစွန့်ချတော်မူလိုက်လေသည်။

၁၉၆၄ ထိုအချိန်ကား ၁၃၂၆ ခုနှစ် တော်သလင်းလပြည့်ကျော် ၈ ရက် (၂၉ စက်တင်ဘာ ၁၉၆၄) ညနေ ၆ နာရီ ၄ မိနစ်ဖြစ်၍ သက်တော် ၉၃ နှစ် သိက္ခာတော် ၇၃ ဝါ ရရှိတော်မူသည်။

## အံ့ဖွယ်ဖြစ်ရပ်ဆန်းများ

အရှင်မြတ် ခန္ဓာဝန်စွန့်ချ၍ တစ်ဘဝပြီးတော်မူချိန်တွင် မြေငလျင် ပဲ့တင်တုန်လှုပ်ခြင်း၊ ကောင်းကင်၌ ဥက္ကာပျံခြင်း၊ အရှင်မြတ်စံကျောင်းမှ အထက်သို့ သက်တံလိုလို အရောင်များဖြာတက်သွားခြင်း၊ ကျောင်းတိုက်အတွင်းရှိ ကျေးငှက်သတ္တဝါတို့ ရုတ်ခနဲ သံပြိုင်ဟစ်အော်ခြင်း၊ ကောင်းကင်က တီးမှုတ်သံ ကြေးစည်သံ ခရုသင်းသံလိုအသံများ ကြားရခြင်းစသော ထူးခြားမှုများကိုတွေ့ရှိကြရသည်။

၁၉၂၀ ထို့အပြင် ၁၂၈၂ ခု (၁၉၂၀)ခုနှစ် အရှင်မြတ်ကြီး ကိုယ်တိုင်စိုက်ပျိုး ပူဇော်ခဲ့သော ဗောဓိတိုက်က ဗောဓိပင်ကြီးလည်း ရွတ်တရက် ညှိုးရော်ခြောက်သွေ့သွားပေသည်။



**ရုပ်ကလာပ်တော်**

၁၉၆၄ ရုပ်ကလာပ်တော်သဂြိုဟ်ရန်အတွက် အရှင်မြတ်၏ မှာထားချက်များမှာ "ငါတို့သေလျှင် ငါတို့၏ ရုပ်ကလာပ်ကို နေ့မကူးဘဲ သဂြိုဟ်လိုက်ရမည်"ဟု ပထမ မှာထားခဲ့၏။

အေဒီ ၁၉၆၄ ခု အောက်တိုဘာ လ ၃ ရက်၊ စနေနေ့ (၁၃၂၆ ခု တော်သလင်းလပြည့်ကျော် ၁၂ ရက်နေ့) နေ့လယ် ၁ နာရီ အချိန်တွင် ရုပ်ကလာပ်တော်ကို အရှင်မြတ်ခန္ဓာဝန်မစွန့်မီက စီမံပြုလုပ်တော်မူထားသော မိုးညှင်းသမ္ဗုဒ္ဓေကျောင်းတိုက်အရှေ့တောင်ဘက်ရှိ မဟာဗောဓိစေတီအနီးအရိုးအိုးစေတီတော်၌ မှန်ခေါင်းနှင့်တကွသွင်း၍ အလုံပိတ်ပူဇော်လိုက်ကြလေသည်။ ဤသို့ဖြင့် ရုပ်ကလာပ်တော်ကို ပူဇော်ထားရှိခဲ့လေသည်ဟု သိရပါသည်။

**မိုးညှင်းဆရာတော်၏ မေတ္တာအဘိဏှသုတ်ကျင့်စဉ်**

မိုးညှင်းဆရာတော် ဟောကြားတော်မူသော မေတ္တာကျင့်စဉ်မှာ လိုက်နာဖွယ် အတုယူဖွယ် ဖြစ်ပါသည်။ လိုရင်းဆုံးအချုပ်ကိုကား -

ဝိသုဒ္ဓိမဂ်လာအတိုင်း မေတ္တာအာရုံအချက်သို့ ဉာဏ်သက်လွယ်ရာတို့ မြန်မာများ မေတ္တာပွား၍ ပုတီးစိပ်ကြရန်မှာ သားငှက်များကို ကွန်ယက်နှင့်အုပ်၍ ဖမ်းသကဲ့သို့ ပိယပုဂ္ဂိုလ်စုအရာ၌ တည်သော မိမိတို့အိမ်ရှိ လူ-နတ်-ကျွဲ-နွားမှစ၍ ရှိရှိသမျှ-သတ္တဝါတွေကို ဉာဏ်ကွန်ယက်နှင့် အိမ်ပေါ်ကအုပ်ခြုံပြီးလျှင် -

တို့တစ်အိမ်လုံး ချမ်းသာကြပါစေ။

တို့တစ်အိမ်လုံး ချမ်းသာကြပါစေ။ ဟူ၍လည်းကောင်း၊

မိမိတို့အိမ်သားအောက် အချစ်လျော့ကျ၍ မဇ္ဈိမပုဂ္ဂိုလ်စုအရာ၌တည်သော မိမိတို့ရွာရှိ လူ-နတ်-ကျွဲ-နွားမှစ၍ အကုန်ရှိရှိသမျှ သတ္တဝါတွေကို ဉာဏ်ကွန်ယက်နှင့်ရွာပေါ်က အုပ်ခြုံပြီးလျှင် -

တို့တစ်ရွာလုံး ချမ်းသာကြပါစေ။

တို့တစ်ရွာလုံး ချမ်းသာကြပါစေ။ ဟူ၍လည်းကောင်း၊

ထိုအတူ မိမိတို့ ပြည်ရှိ သတ္တဝါတွေကို ရပ်ရွာ နယ်ကျဉ်းကျဉ်းကစ၍ ဉာဏ်မီသမျှ-ခွဲ၍ခွဲ၍ ဉာဏ်ကွန်ယက်နှင့် ပြည်ပေါ်ကအုပ်ခြုံပြီးလျှင် -

တို့တစ်ပြည်လုံး ချမ်းသာကြပါစေ။

တို့တစ်ပြည်လုံး ချမ်းသာကြပါစေ။ ဟူ၍လည်းကောင်း၊

ဤသုံးဌာနတို့ကို တစ်နေ့တစ်နေ့မှာ (၁၀၈)လုံး ရှိသည့် ပုတီးပတ် (၅၀)စီဖြစ်စေ၊ ပါရမီဆယ်ပါး နေ့စဉ်အသားတက်ရန် ယခုဘဝပစ္စက္ခ၌ ဘေးရန်ကင်းပ၍ ကြတိုင်းအောင်ဆောင်တိုင်းမြောက်ကြရန်



သမထယာနိက ယောဂီအမျိုးမျိုး ဝိပဿနာယာနိက ယောဂီအမျိုးမျိုး ယောဂီမဟုတ်သူ အမျိုးမျိုးတို့ပင် အားထုတ်သင့် အားထုတ်အပ်ကြောင်းနှင့် သဗ္ဗတ္ထက-ကမ္မဋ္ဌာန်းတို့၌ အဋ္ဌကထာ ဆရာမြတ်တို့ မိန့်အပ်တော်မူကြပေသတည်း။

ဤမေတ္တာဖြင့်ပင် စိတ္တဝိသုဒ္ဓိအခြေခံ၍ ဝိပဿနာတက်ရန် အလိုရှိသူတို့မှာ အသက်ရှင်သော မိ-ဘ-ဆရာ စသည် တစ်ယောက်ယောက်ကိုသာဉာဏ်ဖြင့် စူးစူးစိုက်စိုက် ပွားများကြရာ၏၊

**ပွားများပုံကား**

အမိ ချမ်းသာပါစေ၊ အမိ ချမ်းသာပါစေ၊

အဘ ချမ်းသာပါစေ၊ အဘ ချမ်းသာပါစေ၊

ဆရာ ချမ်းသာပါစေ၊ မည်သူ ချမ်းသာပါစေ။

စသည်ဖြင့် မိမိတို့ အလိုရှိကြသည့် ပုဂ္ဂိုလ်တည်းဟူသော (ပရိကမ္မနိမိတ်)ရှိရာသို့ ဉာဏ်လွှတ်၍ နေ့စဉ် တစ်နာရီ၊ နှစ်နာရီ စသည် ပွားများသော ယောဂီမြတ်တို့သည် ၄င်းပရိကမ္မနိမိတ်ဖြစ်သော ပုဂ္ဂိုလ်ရှိရာမှခွာ၍ မိမိတို့အလိုရှိရာ အနီးအနားသို့ ၄င်းပုဂ္ဂိုလ် အာရုံကိုဆောင်ယူ၍ ရနိုင်လျှင် (ဥဂ္ဂဟနိမိတ်)ကို ရသည်မည်၏။

၄င်းပရိကမ္မ-ဥဂ္ဂဟ နိမိတ်နှစ်ပါးကိုရရှိပြီး၍ အာရုံမတည်သေးသောအခါ ပွားများသော ဘာဝနာသည် (ပရိကမ္မဘာဝနာ)မည်၏၊ ၄င်း-ဥဂ္ဂဟ နိမိတ်ကိုပင် အာရုံပြုပြီးလျှင် မြဲမြဲစွာတည်ကြည်၍ နီဝရဏကင်းရုံသာဖြစ်သော ဘာဝနာသည် (ဥပစာရဘာဝနာ)မည်၏။

၄င်းဥဂ္ဂဟနိမိတ်ကိုပင် အာရုံပြုပြီးလျှင် အခါခါပွားများ၍ ကာမစ္ဆန္ဒစသော နီဝရဏတို့ ကင်းပြီး အာရုံထဲသို့ စိတ်ဝင်စိတ်ထဲသို့ အာရုံဝင်သကဲ့သို့ဖြစ်လျက် ဈာန်အင်္ဂါတို့ တည်းထင်ရှားလာ၍ ငြိမ်သက်တည်ကြည်စွာ ဖြစ်ပေါ်လာသော သမာဓိဘာဝနာသည် (အပ္ပနာဘာဝနာ)မည်၏။

၄င်းအပ္ပနာ အဆင့်ဆင့်တို့ကို ဝသီဘော်ငါးပါးတို့ဖြင့်လေ့လာ၍ စတုတ္ထဈာန်တိုင် အောင်တက်နိုင်လေ၏၊ ဤသို့ မေတ္တာလုပ်ငန်းကြီးဖြင့် အာရုံနိမိတ်နှစ်ပါး ဘာဝနာသုံးပါး ဈာနလေးပါးတို့ကို ရနိုင်ရုံမက ယခုပစ္စက္ခ၌ ဒိဋ္ဌအကျိုး-တစ်ဆယ့်တစ်ပါးခံစားရကြောင်းနှင့် အင်္ဂုတ္တိုရ်ပါဠိတော်လာကို လင်္ကာနှင့်ဆိုရမူ။

ချမ်းသာ သုံးမျိုး၊ အိပ် နိုး အိပ်မက်၊
ချစ်လျက် လူ နတ်၊ စောင့်လတ် နတ်များ၊
မီးကားမလောင်၊ ဆိပ် ရှောင်မသင့်
လက်နက်ဖြင့်-ပ၊ မစူးရှတည့်၊
လွင့်ပ စိတ်တည်၊ မျက်နှာကြည်ပေ၊
တွေဝေ မရှိ၊ သေရဘီဆို၊ မင်ဖိုလ် မရ၊
ရှိပြန်ကသော်၊ လားရ ဗြဟ္မာပြည်၊
ဆဲ့တစ်လီ၊ များသည်မေတ္တာ အကျိုးတည်း။

ထိုမှတစ်ပါး ရောဂါ-ကပ်-ဥပါဒ်တို့ ကင်းပျောက်ခြင်း အလိုဆန္ဒပြီးခြင်းစသည်တို့ကို ကိုယ်ဟိုင်-ဒိဋ္ဌတွေ့ကြုံရသောအကျိုး ကျေးဇူးများကို မိမိတို့ကပင် သက်သေပြနိုင်အောင် အားထုတ်ကြဖို့ အချက်တို့ကား မေတ္တာပို့သအပ်သော ပုဂ္ဂိုလ်တို့အထိသို့ ချမ်းသာစေလိုသော မေတ္တာစိတ်ရောက်ပြီးလျှင် စူးစူး



စိုက်စိုက် ကြိမ်ဖန်များစွာ ဘယ်ဘာသာနှင့်မဆို ပွားများလိုက်ပါမူ ဘေးလည်းကင်း ရန်လည်းကွာ လိုရာကိစ္စစုတို့လည်းပြီးစီးကြ၍ နွားမဝတ္ထုကဲ့သို့ သက်သေအမျိုးမျိုးပြနိုင်ကြရန် အကြောင်းကိစ္စ တွေ့ကြုံကြတိုင်းတို့မှာ အထူးအားသစ်ကြပါလေဟု မှာထားတော်မူခဲ့ပါသည်။

## ပါဠိဘာသာမှတစ်ပါး မြန်မာဘာသာနှင့်ပွားများလို့ မေတ္တာဟုတ်သည်ဟုမထင်၊ ကိုယ့်အိမ်သားကို ပွားများလို့လည်း မေတ္တာဟုတ်သည်ဟု မထင်သူတို့အတွက် နွားမဝတ္ထု ဆက်၍ဆိုဦးအံ့

ဘယ်ဆရာတို့ကမှ သားငယ်ကိုနို့တိုက်နေသော နွားမကြီးကို ပါဠိဘာသာနှင့် မေတ္တာပို့ သင်မထားပါ။ မိမိတို့ နွားတိရစ္ဆာန်ဘာသာနှင့်ပင် နို့စို့၍နေရှာသည့် သားငယ်တည်းဟူသော သတ္တဝါအနက် ရှိရာသို့ချမ်းသာစေလိုသော မေတ္တာစိတ်အစဉ်ရောက်ပြီးလျှင် စူးစူးစိုက်စိုက် နို့တိုက်ရင်း ပို့သနေလိုက်ဆဲ သောအခါ မုဆိုးကလာပြီးလျှင် ရှည်စွာသောလှံမကြီးနှင့် တစ်ဟုန်တည်းထိုးလိုက်ရာ မစူးပါဘဲ ထန်းရွက်လှံပမာ ခွေလိပ်၍သွားရှာသည့် ထိုနွားမမေတ္တာကား ဥပစာအပ္ပနာမဟုတ်ပါ။ ထိုခဏမှာပင် သားငယ်တည်းဟူသောအာရုံကိုထင်မြင်၍ နွားတို့ဘာသာနှင့် အခါခါစူးစိုက် ပွားများလိုက်ချက် ဝိသုဒ္ဓိမဂ် ရွှေကျမ်းထွက် ထိုမေတ္တာအကျိုးဆက်သက်သေများကို ယုံကြည်အားထားကာ ဘယ်ဘာသာနှင့်မဆို၊ ဘယ်အိမ်သားကိုမဆို၊ ချမ်းသာစေလိုသော မေတ္တာစိတ်ရောက်၍ ပွားများအားထုတ်ကြပါက ဒိဋ္ဌဓမ္မအကျိုးထူးများကို ဧကန် ရနိုင်ကြလိမ့်မည်ဟု ယုံယုံကြည်ကြည် စိတ်ထား၍ ပွားများအားသစ်နိုင်ကြပါစေသတည်းဟု မိန့်တော်မူခဲ့ပါသည်။

(ကျမ်းကိုး။ မောင်ပန်းမွှေး၊ ၂၀၀၅၊ မေလ ၂၃ ရက်၊ အချစ်ဂျာနယ်၊ အတွဲ ၄၊ အမှတ် ၈ အန္တရာယ်ရှိလျှင် အန္တရာယ်ကင်းအောင် ချက်ချင်းလက်ငင်း အသုံးပြုဖို့ မိုးညှင်းဆရာတော် သင်ကြားပို့ချခဲ့သည့် မေတ္တာအကြောင်း)

## <u>အန္တရာယ်ကင်းတရားကြီး</u>

ရှေးရှေးအထက် ဆရာကြီးတို့ စဉ်အလာက ငါတို့လက်ထက်ကျအောင် ကိုယ်တွေ့ဒိဋ္ဌ အဟုတ်အားထားရသော အန္တရာယ်ကင်းကြီးတို့ကား။

ဗုဒ္ဓဂုဏော အနန္တော။ ဓမ္မဂုဏော အနန္တော။ သံဃဂုဏော အနန္တော၊
မာတာပိတုဂုဏော အနန္တော၊ အာစရိယ ဂုဏော အနန္တော၊
ဗုဒ္ဓေါ မေ သရဏံ အညံ နတ္ထိ၊ ဓမ္မော မေ သရဏံ အညံ နတ္ထိ၊
သံဃော မေ သရဏံ အညံ နတ္ထိ၊
ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ ဓမ္မံ သရဏံ ဂစ္ဆာမိ၊ သံဃံ သရဏံ ဂစ္ဆာမိ၊
သော ဥတ္တိ၊ ဂစ္ဆ အမုမှိ၊ ဩကာသေ တိဋ္ဌာဟိ။

ဤအန္တရာယ်ကင်းကြီးကို လူတိုင်းပင် အနည်းဆုံး တစ်နေ့ဆယ်ခေါက်ထက်မနည်း ရအောင် ပြန်အံနှလုံးသွင်းကြ။ ကပ် ဥပါဒ်တို့နှင့် ကြောင့်ကြမကင်းရှိမူ ဤဂါထာတော်ကြီးကို ၃၇ ခေါက် ၁၀၈ခေါက် စသည်ရွတ်၍ ပရိတ်ရေ ပရိတ်သဲ ပရိတ်ခဲ ပရိတ်ဆေး စသည်ပြု၍ သုံးနိုင်၏ဟု မှာကြားတော်မူပါသည်။



## အန္တရာယ်ကင်း အမျှဝေကြီးကား

ငါတို့သည် ပြုအပ်ကုန်ပြီးသော ကုသိုလ်ကောင်းမှု အဖို့ကို ဤအရပ်တို့၌လည်းကောင်း ခပ်သိမ်းသော အရပ်ဆယ်မျက်နှာတို့၌လည်းကောင်း တည်ရှိတော်မူကြကုန်သော ခပ်သိမ်းသော အစိုးရအစောင့်အရှောက် သူတော်ကောင်းအစရှိကုန်သော ပုဂ္ဂိုလ် အပေါင်းတို့အား အထူးသဖြင့် အမျှပေးဝေပါကုန်၏။ အထူးသဖြင့် အမျှပေးဝေပါ ကုန်၏။ အကျွန်ုပ်တို့နှင့်အတူတကွအမျှရကြ၍ ချမ်းသာကြသည်ဖြစ်စေသော်၊ အကျွန်ုပ်တို့ အားလည်း အထူးသဖြင့် စောင်မကြည့်ရှု ခွင့်ပြုနည်းပေးတော်မူကြစေကုန် သတည်း။

ဤအန္တရာယ်ကင်း အမျှဝေကြီးကိုလည်း ဘုရားရှိခိုးပြီးစ ဒါန သီလ ပုတီးစိပ်ဘာဝနာများကို အားထုတ်ပြီးစတို့မှာ နေ့စဉ်လည်းအမျှဝေကြ၊ ခရီးသွားလိုသောအခါ၊ ရောင်းဝယ်သမှု ကိစ္စကြီးငယ်ကို ပြုလိုသောအခါ၊ ဘေးရန်အန္တရာယ်တို့နှင့် ကြောင့်ကြမကင်းရှိသောအခါတို့မှာ ရှေ့ကအန္တရာယ်ကင်းကြီး နှင့် ဤအမျှဝေကြီးတို့ကို အနည်းဆုံး ၃ ခေါက် ၇ ခေါက်စီ ရွတ်ကြမူ၊ အထူးအန္တရာယ်ကင်းနိုင်၏။

**ဘီလူးကြီးကိုယ်တိုင် သူငယ်ကလေးခြေကို ကိုင်ဆွဲလာသောအခါ ရွတ်လိုသောစိတ် အထူးမပါဘဲ ရောင်ရမ်းကာ ရွတ်ဆိုမိရုံမျှနှင့် ၄င်းအန္တရာယ်ကင်းရုံမက မင်းကြီးများသာ သုံးဆောင်ရသော စားသောက်ဖွယ်အပြီးနှင့် ရွှေခွက်ကြီးကိုတောင် အပူဇော်ခံရသော အန္တရာယ် ကင်းကြီးကား (နမော ဗုဒ္ဓဿ)ပေတည်း။**

ဗုဒ္ဓဿ၊ သက်တော်ထင်ရှား၊ အလုံးစုံကို အကုန်သိတော်မူတတ်သော မြတ်စွာဘုရားအား။ နမောရှိခိုးပါ၏။ ဤပါဠိ မြန်မာ ၂-ဘာသာဖြင့် နေ့စဉ်လည်း ဘုရားရှိခိုးကြ။ အနည်းဆုံး ၁၀ ခေါက်စီလည်းရွတ်ကြ။ စကားပီစ ကလေးကိုလည်း ပါဠိကိုရအောင် ချပေးကြလေ။ သူတော်ကောင်း တွေတို့ ဟူ၍ ဆရာတော်ကြီးကမှာတော်မူခဲ့ပါ၏။

(ကျမ်းကိုး။မောင်ပန်းမွေး အချစ်ဂျာနယ်၊ ၂၀၀၅ ခု၊ မေလ ၁၆ ရက်၊ အတွဲ ၄ ၊ အမှတ် ၇ ၊ မသိသူကျော်သွား၊ သိသူဖော်စား၊ မိုးညှင်းဆရာတော်၏ ချက်ချင်းလက်ငင်း အန္တရာယ်ကင်း ကပ်ကျော်သိဒ္ဓိပေါက် ဂါထာတော်ကြီး)

(ကျမ်းကိုး၊ မောင်ပန်းမွေး အချစ်ဂျာနယ်၊ ၂၀၀၆ ခု၊ ဇန်နဝါရီလ ၃၀ ရက်၊ အတွဲ ၄၊ အမှတ် ၄၄၊ ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး မိုးညှင်းသမ္ဗုဒ္ဓေ ကိုယ်တော်မြတ်ကြီး ၁)

(ကျမ်းကိုး၊ မောင်ပန်းမွေး အချစ်ဂျာနယ်၊ ၂၀၀၆ ခု၊ ဖေဖော်ဝါရီလ ၆ ရက်၊ အတွဲ ၄၊ အမှတ် ၄၅၊ ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး မိုးညှင်းသမ္ဗုဒ္ဓေ ကိုယ်တော်မြတ်ကြီး ၂)

(ကျမ်းကိုး၊ မောင်ပန်းမွေး အချစ်ဂျာနယ်၊ ၂၀၀၆ ခု၊ ဖေဖော်ဝါရီလ ၁၃ ရက်၊ အတွဲ ၄၊ အမှတ် ၄၆၊ ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး မိုးညှင်းသမ္ဗုဒ္ဓေ ကိုယ်တော် မြတ်ကြီး ၃)

(ကျမ်းကိုး၊ မောင်ပန်းမွေး အချစ်ဂျာနယ်၊ ၂၀၀၆ ခု၊ ဖေဖော်ဝါရီလ ၂၀ ရက်၊ အတွဲ ၄၊ အမှတ် ၄၇၊ ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး မိုးညှင်းသမ္ဗုဒ္ဓေ ကိုယ်တော် မြတ်ကြီး ၄)

# အင်းလေး ရွှေဥဒေါင်းတောင် ဆရာတော်ဘုရားကြီး

## အေဒီ ၁၈၇၃ – ၁၉၈၄ ( ၁၂၃၅ –၁၃၄၆ )





အချို့သောသူများက ဆရာတော်ဘုရားကြီးအား ရဟန္တာဟူ၍လည်းကောင်း၊ အရိယာပုဂ္ဂိုလ်တစ်ဦးဟူ၍လည်းကောင်း၊ အချို့သောပုဂ္ဂိုလ်များက ဆရာတော်ဘုရားကြီးအား သမထဘာဝနာကျင့်စဉ်မှ ဝိပဿနာကျင့်စဉ်သို့ ကူးပြောင်းလာသော အရိယာဝိဇ္ဇာကြီးဟူ၍လည်းကောင်း၊ ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်ကြီးတစ်ပါးဟူ၍လည်းကောင်း၊ အချို့က ဆရာတော်ဘုရားကြီးသည် ရွှေဥဒေါင်းတောင်အနီးတွင် ဈာန်သမာပတ်ဝင်စားနေသည် ဟူ၍လည်းကောင်း၊ မန္တလေး မဟာမြတ်မုနိဘုရားကြီး အလုံပိတ်ထားသော သံတံခါးအတွင်း၌ အရုဏ်ဦးအချိန် ဘုရားဖူးမြော်နေတတ်သည်ဟူ၍လည်းကောင်း၊ ရံဖန် ရံခါ ရန်ကုန် ရွှေတိဂုံစေတီရင်ပြင်ပေါ်တွင် ဘုရားဖူးနေသည်ဟူ၍လည်းကောင်း၊ ရံဖန် ရံခါ အမှတ်မထင် တွေ့ကြရသည်ဟူ၍လည်းကောင်း၊ အံမခန်းကျော်လွှားမွှေးပျံ့လျက်ရှိသော သတင်းစကား၊ အမျိုးမျိုးကျော်ကြားမှု အမျိုးမျိုးတို့သည် ကျွန်တော်ရောက်လေရာ နေရာတိုင်း၌ကြားခဲ့ရလေသည်။

ရွှေဥဒေါင်းတောင်ဆရာတော်ဘုရားကြီးနှင့် ပတ်သတ်၍ တအံ့တဩ အထူးအဆန်း ဖူးတွေ့ရသူ လူပုဂ္ဂိုလ်တစ်ဦးလည်း ရှိပါသေးသည်။ နာမည်ကျော် ပန်းပုဆရာ ဦးဟန်တင်ဖြစ်ပါသည်။ ဦးဟန်တင်၏ ကိုယ်တွေ့ဖြစ်ရပ်မှန်ကို ဒါရိုက်တာ ဆရာဦးမြင့်မောင်က ကိုယ်တိုင်တွေ့ဆုံ မှတ်တမ်းတင်ခဲ့ကြောင်းသိရပါသည်။ ဖတ်ကြည့်ပါ။

## ပန်းပုဆရာကြီး ဦးဟန်တင်၏ ကိုယ်တွေ့

ကျွန်တော် ထားဝယ်သား ကွယ်လွန်သူ ပန်းချီဆရာကြီး ဆရာဦးငွေကိုင်၏ တပည့်တစ်ဦးဖြစ်ပါသည်။ ဆရာကြီး၏ ဩဝါဒစကားအရ ကျွန်တော် သမထဘာဝနာခေါ်တဲ့ ပုတီးစိပ်မေတ္တာပို့အလုပ် လုပ်ခဲ့ပါသည်။ အရက်သေစာမှအစ မကောင်းမှုဟူသမျှတတ်နိုင်သမျှ (အဓိဋ္ဌာန်ဖြင့်မဟုတ်ပါ) ရှောင်ကြဉ်ခဲ့သည်မှာလည်းကြာခဲ့ပါပြီ။

၁၉၆၆ ၁၉၆၆ ခုနှစ်၊ ဇွန်လအတွင်း တစ်ညဦးထင်ပါသည်။ ကျွန်တော်နှင့်ကျွန်တော်၏ ဇနီးဖြစ်သူတို့ အိမ်သားများစီးရန် ငွေ ၉၀၀၀ဝိ ဖြင့် ဝယ်ထားသော 'ဟန်းဘားကား' ကို အကြောင်းပြု၍ အငြင်းပွားစကားများကြပါသည်။ အိမ်တွင်ကားဝယ်ထားသော်လည်း မစီးရဘဲ တစ်ပျက်တည်းပျက်နေသဖြင့် အိမ်သူဇနီးက ထိုကားအမြန်ပြန်ရောင်းပစ်ရန် ကျွန်တော်မလုပ်ကောင်းလားဟု ရန်တွေ့ရင်း လင်မယား အချင်းများကြခြင်းဖြစ်ပါသည်။

အချင်းများကြသဖြင့် ထိုည ကျွန်တော်ပြုလုပ်နေကျ ပုတီးစိပ်ခြင်းအလုပ်ပျက်ခဲ့ပါသည်။ နောက်တစ်နေ့ နံနက်ကျမှ စောစောထ၍ ပုတီးစိပ် ဖြစ်ခဲ့ပါသည်။ ကျွန်တော် ပုတီးစိပ်ပြီးသောအခါ မိမိအသိ စိတ်အာရုံတွင် ရွှေတိဂုံဘုရားသွားချင်စိတ်ဖြစ်ပေါ်လာ၍ ညက စကားများထားကြသဖြင့် စိတ်ကောက်မပြေသေးသော ဇနီးဖြစ်သူကိုချော့၍ အပါခေါ်ကာ အိမ်မှဘုရားသို့ထွက်ခဲ့ကြပါသည်။

ဘုရားပေါ်ရောက်ကြသောအခါ ကျွန်တော်၏အသိစိတ်တွင် ကြည်ပြာပန်းလှူချင်သည့် ဆန္ဒဖြစ်ပေါ်လာပြန်၍ ဘုရားစောင်းတန်းတစ်လျှောက်ရှိ ပန်းဆိုင်များတွင် လိုက်ရှာကြပါသည်။ သို့ရှာရင်း ကျွန်တော့်ဇနီးက ဘုရားပန်းလှူတာပဲ ဘာပန်းလှူ လှူပေါ့ဟုပြောသည်။ ငေါ့သည်။ ကျွန်တော်မလျှော့။ လှူချင်တဲ့ကြည်ပြာပန်းရအောင် ရှာဝယ်မည်ပြောပြီး ဆက်လက်ရှာကြပါသည်။

ဤသို့ဖြင့် ကျွန်တော်လိုချင်သော ကြည်ပြာပန်း တစ်နေရာမှရလာပါသည်။



ကျွန်တော်နှင့်ကျွန်တော်၏ ဇနီးသည် ရွှေတိဂုံရင်ပြင်တော်ပေါ်သို့ တစ်ပတ်ပတ်ပြီး အင်္ဂါထောင့်တွင်ထိုင်လျက် ဘုရားဝတ်ပြုကြရန် ပြင်ဆင်နေကြပါသည်။

ထိုသို့ ပြင်ဆင်နေခိုက်မှာပင် သင်္ကန်းအညိုရောင်နှင့် အရပ်မနိမ့်မမြင့် ရဟန်းကြီးတစ်ပါးကျွန်တော်၏လက်ထဲ၌ ကိုင်ထားသော ကြည်ပြာပန်း ပမာဏ အတိုင်း ကြည်ပြာပန်းများကိုင်လျက် ကျွန်တော်တို့အနီး ကြွရပ်လာပါသည်။ ကျွန်တော်တို့ လင်မယားနှစ်ယောက်ကိုလည်း သေသေချာချာကြည့်ပြီး သိတယ်နော်ဟု မေးပါသည်။ ထိုအခါ ကျွန်တော်၏ဇနီးက ရှိုက်ကြီးတင်ငိုချလိုက်ပါသည်။ ကျွန်တော် ကိုယ်တိုင်လည်း ထိုရဟန်းကြီးကို ငေးကြည့်နေပြီး ငိုချင်နေသလို ဖိုချင်သလို ရင်ထဲ လှိုက်လှိုက်တက်လာသော ဝေဒနာတစ်မျိုးခံစားလိုက်ရပါသည်။

ရဟန်းကြီးက သိတယ်နော် ဒုတိယအကြိမ်မေးပြီး အင်္ဂါထောင့် ဗောဓိ ညောင်ပင်ရှိရာဘက်သို့ မျက်နှာမူလိုက်ရာ ကျွန်တော်က မိမိအိတ်ကပ်အတွင်း၌ရှိသော ငွေတစ်ကျပ်ကို ထိုရဟန်းကြီးအား လှူဒါန်းပြီး လက်အုပ်ချီကန်တော့လိုက်ပါသည်။ ထိုနောက် ရှိုက်ကြီးတင်ငိုနေသော ကျွန်တော်၏ဇနီးကို လှည့်ကြည့်လိုက်သည့်တစ်ခဏ (စက္ကန့်ပိုင်းမျှ)အခိုက်မှာပင် ရဟန်းကြီးဘယ်အချိန်က ကြွသွားသည်မသိ၊ ကျွန်တော် ပြန်ကြည့်လိုက်သောအခါ ရဟန်းကြီး မရှိတော့သည်ကို တွေ့ရပါသည်။

ကျွန်တော် ထိုနေ့က တွေ့လိုက်ရသောရဟန်းကြီးကို ကျွန်တော်၏ တစ်သက် တွင် တစ်ကြိမ်တစ်ခါမျှမမြင်ဖူးပါ။ ဘာကြောင့် ကျွန်တော်တို့ ဇနီးမောင်နှံကို တွေ့တွေ့ချင်း သိတယ်နော်ဟူသော မေးခွန်းမေးသည့်အဓိပ္ပာယ်ကိုလည်းမသိပါ။ ထူးခြားသည့်တစ်ခုက ကျွန်တော်တို့ လင်မယားဘုရားမှ အိမ်ပြန်ရောက်သည့်အချိန် တွင် ယခင်ကဝယ်သူမရှိသော ဟန်းဘားကားပျက်ကြီးကို ဝယ်ယူချင်သူ တစ်ဦးက အိမ်မှစောင့်နေပြီး ငွေ ၈၀၀ဝိ ဖြင့် ဈေးတည့် ရောင်းလိုက်ရခြင်းဖြစ်ပါသည်။

ဟန်းဘားကားကြောင့် ကျွန်တော်တို့ လင်မယား မကြာခဏ စကားများတတ် သောကြောင့် ဝယ်သူရှိလျှင် ၄၀၀ဝိ လောက်နှင့်ပင် လျှော့ရောင်းမည့်ကား ယခု ၈၀၀ဝိ ရလိုက်သဖြင့် ကျွန်တော် ဘုရားပေါ်တွေ့ရလိုက်သော ရဟန်းကြီးကို မကြာ ခဏ သတိရမိနေကြပါသည်။ ကျွန်တော်တို့အနေနှင့် တစ်ခုခုတော့ ထူးထူးခြားခြား ဖြစ်နေသည်ထင်ပါသည်။ ဘယ်လိုထူးခြားသည်ဟု တိတိကျကျ ခွဲခြား မပြောတတ် ခြင်းတစ်ခုပါ။

၁၉၇၄ သို့ဖြင့် ၁၉၇၄ - ၇၅ ခု၊ ရဟန်းကြီးနှင့် ဘုရားပေါ်တွေ့ခဲ့သော နှစ်ပေါင်း ရှစ်နှစ်ကျော် ကိုးနှစ်ခန့်အကြာ တစ်နေ့သောညနေတွင် ကျွန်တော်တို့အိမ်သို့ ဒေါ်သိန်း ကြည်ဆိုသူ အမျိုးသမီးကြီးတစ်ဦးရောက်ရှိလာပြီး အင်းလေးရွှေဥဒေါင်းတောင် ဆရာတော်ဘုရားကြီးရုပ်တု ပန်းပုထုလှူချင်သည်ဟု အလုပ်အပ်ပါသည်။ တန်ဖိုးညှိကြ ပါသည်။ ပြေလည်ကြသောအခါ ဒေါ်သိန်းကြည်က စရန်ငွေပေးပြီး အင်းလေး ဆရာတော်ဘုရားရှိရာ ကိုယ်တိုင်ကိုယ်ကျသွားရောက်ဖူးပြီး လိုအပ်တာ ပြီးစီးအောင် ဆောင်ရွက်ခဲ့ပါဟု မှာကြားသွားလေသည်။

ကျွန်တော်အလုပ်သာလက်ခံလိုက်ရပါသည်။ အင်းလေးကိုမရောက်ဖူးသေး သလို ဆရာတော်ကြီးကိုလည်း မဖူးမတွေ့ဖူးသေးပါ။ သို့တိုင်အောင် ကျွန်တော် ရွှေဥဒေါင်းတောင်သို့ အသွားခရီးစဉ်ကား မမျှော်လင့်မထင်မှတ်ဘဲ ချောမောခဲ့



လေသည်။ ညောင်ရွှေအရောက်တွင် ကျွန်တော် တစ်ခါမှလည်းမရောက်ဖူး၊ လမ်းလည်း မသိသော ရွှေဥဒေါင်းတောင်ပေါ်အရောက် အင်းလေးကိုအောင်ငြိမ်း ဆိုသူက လမ်းပြ လိုက်ပို့ပေးပါသည်။

ရွှေဥဒေါင်းတောင်ပေါ်ရောက်၍ ကျွန်တော့်လုပ်ငန်းအတွက် ဆရာတော် ဘုရားကြီးအား နီးနီးကပ်ကပ်ဖူးတွေ့ လေ့လာသောအခါကျမှ ကျွန်တော်များစွာ အံ့သြခြင်းဖြစ်ရပါသည်။ ဆရာတော်ဘုရားကြီးမှာ လွန်ခဲ့သည့်ရှစ်နှစ်ကျော် ကိုးနှစ် ခန့်က ရွှေတိဂုံစေတီရင်ပြင်တော် အင်္ဂါထောင့်တွင် ကျွန်တော်နှင့်ကျွန်တော့် ဇနီးတို့ ထူးထူးခြားခြားတွေ့ခဲ့ရသော ရဟန်းကြီးနှင့်သွင်ပြင်လက္ခဏာ အားလုံးတူနေသော ကြောင့်ဖြစ်ပါသည်။

တစ်ခုခုတော့ ထူးခြားနေသည်ဟု ယူဆခဲ့သော ကျွန်တော်၏အထင်များ သည် ရွှေဥဒေါင်းတောင်ပေါ်ရောက်၍ ဆရာတော်ဘုရားကြီးနှင့်တွေ့မှ အဖြေပေါ် အဖြေရခဲ့ပါသည်။

**ပန်းပုဆရာကြီးဦးဟန်တင် ရွှေတိဂုံဘုရားတွင် ဖူးတွေ့ခဲ့ရသော ရဟန်း ထူးမှာ ရွှေဥဒေါင်းတောင်ဆရာတော်ဘုရားကြီးဖြစ်ကြောင်း အင်းလေးရောက်မှ အဖြေပေါ်တော့သည်ဟု ဦးဟန်တင်ကဆိုခဲ့ပါသည်။ စဉ်းစားလျှင် အံ့သြဖွယ် ကြည်ညိုဖွယ် ဖြစ်ပါသည်။**

(ကျမ်းကိုး၊ ဒါရိုက်တာ မြင့်မောင်၊ အင်းလေး ရွှေဥဒေါင်းတောင် ဆရာတော်ကြီး၊ ၁၉၈၅ ဇန်နဝါရီ ဒုတိယအကြိမ် ပုံနှိပ်ခြင်း စာ၊ ၁၂၃ - ၁၂၇ )

ရွှေဥဒေါင်းတောင်ဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိ ရုပ်ပုံလွှာကို လေ့လာသင့်ပါသည်။ သို့မှသာ အဖြေပေါ်ပါမည်။ ဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကို ဒါရိုက်တာ မြင့်မောင်က ၁၉၈၅ ခုနှစ်မတိုင်မီကတည်းက အသေအချာရေးသားခဲ့ပါသည်။ ထို့ကြောင့် သိသင့်သည်ကို သိခွင့်ရ ပါသည်။ ဆရာတော်ကြီးသက်တော်ထင်ရှား ရှိစဉ်ကတည်းကပင် ရေးခဲ့သောဆရာဦးမြင့်မောင်၏ စာအုပ် ကိုပင် ကိုးကား၍ ထပ်ဆင့် ပြန်လည်ဖောက်သည်ချပါမည်။ နာယူတော်မူကြပါ။

၁၈၉၂ အေဒီ ၁၈၉၂ ဇန်နဝါရီ ၁၁ ရက် (သက္ကရာဇ် ၁၂၅၃ ခု၊ ပြာသိုလဆန်း ၁၃ ရက်) တနင်္လာနေ့အကူး၊ ညဥ့်သန်းခေါင်လွန် ညဥ့်ဗဟို (၂) ချက်တီးကျော် အချိန်တွင် ပင်ခင်ရွာ၌ ရဟန်းလောင်းလျာ တစ်ဦးကို မီးရှူးသန့်စင်ဖွားမြင်ခဲ့လေသည်။

(ကျမ်းကိုး၊ ဒါရိုက်တာ မြင့်မောင်၊ အင်းလေး ရွှေဥဒေါင်းတောင် ဆရာတော်ကြီး၊ ၁၉၈၅ ဇန်နဝါရီ ဒုတိယအကြိမ် ပုံနှိပ်ခြင်း စာ၊ ၂၇ )

မိဘနှစ်ပါးကား တောင်ယာလယ်လုပ်စားသောက်ကြသည့် အောင်ပန်းမြို့ မြောက်ဘက် နောင်ရဲကျေးရွာဇာတိ ရှမ်းတရဲအမျိုးသား ဦးခိုင်နှင့် ပင်ခင်ကျေးရွာ ဇာတိ ပအိုဝ်း အမျိုးသမီး ဒေါ်အွတ် တို့ဖြစ်သည်။ ရဟန်းလောင်းလျာကား ဦးခိုင်နှင့်ဒေါ်အွတ်တို့မိသားစု အသိုင်းအဝိုင်းထဲတွင် ကိုးယောက် မြောက် အငယ်ဆုံးနှင့်အထွေးဆုံးဖြစ်သည်။

## ဆံပင်ဖြူ တစ်ခေါင်းလုံးဖွေးနေသော ကလေးငယ်မွေးဖွားခြင်း

မိခင် ဝမ်းတွင်းမှ မီးရှူးသန့်စင်ဖွားမြင်လာစဉ်ကပင် ရဟန်းလောင်းလျာ၏ ဦးခေါင်းတစ်ခုလုံး ဆံပင်များဖွေးဖြူနေခြင်း၊ ဖြေဖဝါးနှစ်ဖက်စလုံးတွင် ထူးခြားနေသောရေစီးကြောင်း အမှတ်လက္ခဏာဖြင့်



ကြာဖူး၊ ကြာပွင့်သဏ္ဌာန်ပါရှိလာခဲ့ခြင်းတို့ကြောင့် မိဘများက ရဟန်းလောင်းလျာ တစ်လသားအရွယ် ကပင် ပင်ခင်ရွာကျောင်း ဆရာတော်ဦးသာဂရထံတွင် အပ်နှံခဲ့လေသည်။ ပင်ခင်ကျောင်း ဆရာတော်ဦးသာဂရကလည်း ထူးခြားသော တစ်လသားအရွယ် ရဟန်းလောင်းလျာ၏ လူအမည်ကို မောင်ကြာအောင်ဟု နေ့နှင့်နံနှင့်ညှိ၍ အမည်ပေးချီးမြှင့်တော်မူလိုက်သည်။

(ကျမ်းကိုး ၊ ယင်း စာ ၂၇ )

ပင်ခင်ကျောင်းဆရာတော် ဦးသာဂရသည် ကိုရင်လေး ရှင်ကုမာရအား ပရိယတ္တိအခြေခံ စာဝါများကို သင်ကြားပို့ချတော်မူပြီးနောက် ပရိယတ္တိအရာတွင် ပြောင်မြောက်စွာ တတ်မြောက်စေလိုသော ဆရာကောင်းဆရာမြတ်တို့၏စေတနာဖြင့် မြေပြန့် မန္တလေးတိုင်း ရမည်းသင်းမြို့ သိမ်ကုန်းကန်ထောင့်ကျောင်း ပရိယတ္တိစာသင်တိုက်သို့ ဆက်လက်သင်ကြားဆည်းပူးရန် ရှင်ကုမာရအား တိုက်တွန်းစကားပြောကြားတော်မူသည်။

ထိုစဉ်က ရမည်းသင်း သိမ်ကုန်းကန်ထောင့်ကျောင်း ပရိယတ္တိစာသင်တိုက်ကို ကြီးကြပ်အုပ်ချုပ်နေသူပုဂ္ဂိုလ်မှာ ဆရာတော် အရှင်စာရိတ္တာဘိဝံသဖြစ်သည်။

(ကျမ်းကိုး ၊ ယင်း စာ ၂၈ )

## ရသေ့ကြီး ဦးခန္တီနှင့် တွေ့ဆုံခြင်း

ထိုအချိန်တွင်ပင်ခင်ကျောင်းဆရာတော် ဦးသာဂရထံသို့ ရသေ့ကြီးဦးခန္တီ အလည်ကြွရောက်တော်မူလာပြီး တွေ့တွေ့ချင်းချစ်ခင်သောကြောင့် ရှင်ကုမာရအား ပင်လောင်းနယ် ပင်ခင်ကျောင်းမှ ခြေကျင်ခရီးအားဖြင့် သုံးညအိပ် နားနားနေနေ သွားရသော မြေပြန့်ရမည်းသင်း သိမ်ကုန်းကန်ထောင့်ကျောင်းသို့ ခေါ်ဆောင်သွားလေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၄၀ )

ရမည်းသင်း သိမ်ကုန်းကန်ထောင့်ကျောင်း ပရိယတ္တိစာသင်တိုက် ဆရာတော် ဦစာရိတ္တာဘိဝံသထံတော်သို့ သေချာစွာ ပြောဆိုအပ်နှံထားခဲ့လေသည်။

သို့ဖြင့် ကိုရင်လေး ရှင်ကုမာရသည် ရမည်းသင်း သိမ်ကုန်းကန်ထောင့်ကျောင်း ဆရာတော်၏ ပရိယတ္တိစာသင်တိုက် လေးနှစ်တိတိ ပညာသင်ယူခဲ့ပေသည်။ ထိုနောက်တွင်ကား ဆရာတော်၏ အကြံပေးတိုက်တွန်းချက်အရ ဆရာတော်၏ ထောက်ခံချက်စာဖြင့် ရမည်းသင်း အနောက်ဘက် အုန်းတောသက်ကယ်ခြံကျောင်း စာသင်တိုက်ဆရာတော် ဦးပဏ္ဍိတဉာဏထံသို့ ပြောင်းရွှေ့၍ ပရိယတ္တိစာပေများကို ဆက်လက်သင်ကြားဆည်းပူးခဲ့လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၄၂ )

ကိုရင်လေး ရှင်ကုမာရသည် ရမည်းသင်း သက်ကယ်ခြံကျောင်း စာချဆရာတော် ဦးပဏ္ဍိတဉာဏထံတွင် သုံးနှစ်ခန့် လောကုတ္တရာပရိယတ္တိစာပေများနှင့် ပိဋကတ်ကျမ်းများကို နှံ့စပ်သလောက်သင်ယူပြီးခဲ့သောအခါ ရှမ်းပြည်နယ်သို့ပြန်၍ ပင်လောင်းနယ် ပင်မှိုလယ်ကြား ကျောင်းတိုက်ဆရာတော် ဦးဂုဏထံတွင် တစ်ဝါခိုနေပြီးနောက် မိမိဇာတိရပ်မြေ မွေးဌာနေ ပင်လောင်းနယ် ပင်ခင်ကျောင်းသို့ ပြန်ခဲ့လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၄၄ )

၁၉၁၂ အေဒီ ၁၉၁၂ ခု (သက္ကရာဇ် ၁၂၇၃ ခုနှစ်)အသက် ၂၀ ပြည့်သောအခါ မိဘများ



ဖြစ်ကြသော ဦးခိုင်၊ ဒေါ်အွတ်နှင့်လုံးပိုးကျေးရွာကျောင်း ဒကာဖူးစသော ဒါယကာလေးဦးတို့က စတုပစ္စယဒါယကာများအဖြစ် ခံယူကြပြီးလျှင် ပင်ခင်တောရကျောင်းနှင့် နန်းနိမ်ဆရာတော် ဦးနန္ဒိယ မထေရ်ကြီးကို ဥပဇ္ဈာယ် ဆရာပြုတော်မူလျက် ပန်းတောင်းကျောင်းဆရာတော် ဦးစန္ဒ၊ ကျောက်ဆင့်ကျောင်းဆရာတော် ဦးပညာဇောတ၊ လွယ်အယ်ကျောင်းဆရာတော် ဦးအာလောကတို့က ပထမကမ္မဝါစာ ဆရာပြုကြ၍ ကာရက သံဃာတော် ၂၀ ပါးဖြင့် ပင်ခင်ကျောင်းတောင်ဘက်ရှိ ဥဒကုက္ခေပရေသိမ်တော်တွင် အရှင်ကုမာရဘွဲ့အမည်ရင်းဖြင့် မြင့်မြတ်သော သာသနာတော်ထမ်း ရဟန်းအဖြစ်သို့ ရောက်ခဲ့လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၄၄ )

တောင်ငူမြို့ လယ်ကလေးစာသင်တိုက်ကျောင်း ဓမ္မာစရိယဆရာတော် ဦးဉာဏစရထံသို့ သွားရောက်၍ သုတ္တန်ပါဠိတော် အဋ္ဌကထာ၊ သမ္မောဟဝိနောဒနီ အဋ္ဌကထာတို့ကို ဋီကာအမျိုးမျိုးနှင့် တွဲဖက်၍ သင်ကြားနာယူခဲ့ပြန်လေသည်။

(ကလောမြို့နယ် ရွှေယာဉ်တောင်ကျောင်း ဆရာတော် ဦးအရိယဝံသ ရေးသားသည့် ဆရာတော်ကြီး ထေရုပ္ပတ္တိအကျဉ်းချုပ်စာအုပ်တွင် ရှမ်းပြည်နယ် ပွေးလှမြို့ ကျောက်တောကျောင်းတိုက် စာချအကျော်ဆရာတော် ဦးက္ကန္ဒ ထံတွင် တစ်ဝါနေခဲ့သည်ဟုတွေ့ရသည်။)

၁၉၁၃ တောင်သူလယ်ကလေး စာသင်ကျောင်းတိုက် ဆရာတော်၏ ခွင့်ပြုတိုက်တွန်း စေလွှတ်ချက်အရ မန္တလေးရွှေမြို့တော်တွင် ခိုလှုံပညာသင်ကြားရန် ကိုယ်တော်လေး ဦးကုမာရသည် အေဒီ ၁၉၁၃ ခု (၁၂၇၅ ခုနှစ်)တွင် တောင်ငူမှ မန္တလေးသို့ထွက်ခဲ့လေသည်။ ကိုယ်တော်လေး ဦးကုမာရ မန္တလေးနေပြည်တော်သို့ ရောက်သွားချိန်က အသက် ၂၂ နှစ်ခန့်မျှရှိသေးသည်။ ပရိယတ္တိစာပေများ ဆက်လက် သင်ကြားရန် နှပျိုနေဆဲ တက်ကြွနေဆဲအရွယ်ဖြစ်သည်။

## ရဟန္တာဆရာတော်ဦးကြည်၏ တပည့်ဖြစ်ခဲ့ခြင်း

ရှင်ကုမာရသည် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက် သံဃနာယက အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရ ဆရာတော်ဦးငြိမ်းခေါ် ဦးဥတ္တမသဘိဝံသ၊ ဆရာတော်ဦးဝိုင်း၊ ဆရာတော်ဦးပုခန်းနှင့် ဆရာတော်ဦးကြည်တို့ အထံတော်၌ ၅ ဝါမျှ ကာလပတ်လုံး မိမိလိုလား တောင့်တခဲ့သော ပိဋကတ်ကျမ်းဂန်များကို ဆရာစဉ်ဆက် ဆောင်ရွက်ဆုံးဖြတ်တော်မူခဲ့သည့် အာစရိယာမုဋ္ဌိ နည်းနာနယတို့ကို တိတိပပသင်ကြားနာယူခဲ့ပေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၄၆-၄၇ )

၁၉၂၀ ကိုယ်တော်လေး ဦးကုမာရသည် မန္တလေးနေပြည်တော်တွင် ရွှေမြို့တော်တွင် ရဟန်းဘဝဖြင့် ၆ ဝါ ကြာသည်အထိ ပရိယတ္တိစာပေများသင်ကြား ဆည်းပူးခဲ့ပြီးနောက် အေဒီ ၁၉၂၀ ခု၊ (သက္ကရာဇ် ၁၂၈၂ ခုနှစ်)တွင် မန္တလေးမှ မိမိမွေးရပ်ဇာတိမြေ ရှမ်းပြည်နယ်တောင်ပိုင်း ပင်လောင်းနယ်ပင်ခင် ကျေးရွာကျောင်းသို့ ပြန်လည်ကြွလာခဲ့လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၄၈ )



တစ်နေ့တွင် မည်သို့မျှ အဆက်အသွယ်လည်းမရှိ၊ မျှော်လင့်ထားခြင်းလည်းမရှိခဲ့သော လုံးပိုးကျေးရွာမှ ကျောင်းဒကာမေး ကျောင်းဒကာညွှန်းနှင့် ဆရာကြီးဦးဆန်စသော လူကြီးများ ရောက်ရှိလာကြပြီး ကျားတွန်ကျောင်း၌ ကျောင်းထိုင်ဆရာတော် လစ်လပ်နေသဖြင့် ကျောင်းဒါယကာ ကျောင်းဒါယိကာမများအားလုံးကလည်း သဘောတူညီပြီးဖြစ်၍ လာရောက်ပင့်လျှောက်ရခြင်းဖြစ်ကြောင်း လျှောက် တင်ကြလေသည်။

၁၉၃၂ ကျားတွန်ကျောင်း၌ ကျောင်းထိုင်ဆရာတော် စာချဆရာတော်အဖြစ် သီတင်းသုံးတော်မူရင်း အေဒီ ၁၉၃၂ ခု (သက္ကရာဇ် ၁၂၉၃ ခုနှစ်) ကျောင်းထိုင်အဖြစ် ၁၀ ဝါအရတွင် သမထဝိပဿနာအားထုတ်ပုံ အားထုတ်နည်းများနှင့်စပ်လျဉ်း၍ မိမိစိတ်၌ မရှင်းလင်း မသဲကွဲသောအချက်များ ဆွေးနွေးရန် နည်းနိဿယ ခံယူရန်အတွက် မန္တလေးတိုင်း ရမည်းသင်းခရိုင် ညောင်လွန့်တောရကျောင်း ဦးစီးနာယက ဆရာတော် ဦးမေဓာဝီ ထံသို့ ရောက်တော်မူသည်။

(ကျမ်းကိုး ၊ ယင်း စာ ၅၄ )

## ရဟန္တာအရှင်မြတ် ညောင်လွန့်ဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်ခြင်းဟူသော ဂုဏ်

ထိုညောင်လွန့်တောရကျောင်းဆရာတော်ထံတွင် မေတ္တာကမ္မဋ္ဌာန်းပွားနည်း၊ သထမဝိပဿနာတရား ကျင့်ကြံအားထုတ်နည်းတို့ကို ရှစ်လကြာမျှ နည်းနာခံယူခဲ့လေသည်။ ညောင်လွန့်တောရဆရာတော်သည် နောင်တွင် ရဟန္တာတစ်ဆူဟု ထင်ရှားတော်မူသော ဆရာတော်ကြီး ဖြစ်သည်။ အလားအလာကောင်းသော ဦးပဥ္စင်းဦးကုမာရကိုယ်တော်အား ပဋိပတ္တိ၊ ပဋိဝေဓ များကို စိတ်ရှည်စွာ သင်ကြားပြသပေးတော်မူသည်။

(ကျမ်းကိုး ၊ ယင်း စာ ၅၄ )

## ညောင်လွန့် ဝိပဿနာ

ဆရာတော်ကြီးက ညောင်လွန့်ဆရာတော်ထံ တရားနဲ့ ပတ်သက်တာ တပည့်သွားခံတာပါ၊ နည်းနာယူတာပါဟု ရိုးရိုးရှင်းရှင်း စင်းစင်းဖြောင့်ဖြောင့်ကြီးပင် အမိန့်ရှိတော်မူလိုက်လေသည်။ ယခု သက်တော် ၉၄ တိုင် ထိ သိ သတိ အာနာပါန ကမ္မဋ္ဌာန်း အလုပ်ဖြင့် ဆရာတော်ကြီး ကျင့်ကြံအားထုတ်ခဲ့သည့် ဝိပဿနာတရားလုပ်ငန်းစဉ်တို့မှာ မူလအစ ညောင်လွန့်မှ အခြေခံလာကြောင်းလေ့လာ သိရှိခဲ့ရသည်။

(ကျမ်းကိုး ၊ ယင်း စာ ၅၅ )

သမထ ဝိပဿနာ ကမ္မဋ္ဌာန်းတရား ကျင့်ကြံအားထုတ်ပုံ အားထုတ်နည်းနှင့် စပ်လျဉ်း၍လည်း ညောင်လွန့်တောရဆရာတော်ဘုရားကြီးက မည်ကဲ့သို့ သင်ကြားပေးကြောင်းကို ရွှေဥဒေါင်းတောင်ဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း နောင်လာနောက်သားများအား နည်းပေးခဲ့ပါသည်။

## လျှို့ဝှက်နည်း တစ်နည်း

ဦးပဥ္စင်း ဦးကုမာရ ဝိပဿနာ ရှုပွားတဲ့အခါ အမြန်ဆုံး ဉာဏ်ပွင့်နိုင်တာက ခန္ဓာငါးပါးထဲက တစ်ပါးပါးကိုသာ အာရုံစိုက်ရှုမှတ်တဲ့ ဘုံကျဉ်းဖြစ်တယ်။ ခန္ဓာငါးပါးထဲက နှစ်ပါးသုံးပါး ရှုမှတ်လျှင် ဘုံလတ်ဖြစ်တယ်။ ခန္ဓာငါးပါးစလုံး



ရှုမှတ်လျှင် ဘုံကျယ်ဖြစ်သွားတယ်။ တရားရှုမှတ်တယ်ဆိုတာ မိမိဉာဏ်နှင့် အိုးတန်ဆန်ခတ်ဖြစ်၊ အမြန်ဆုံး ဉာဏ်ပွင့်နိုင်သည်ဟူ၍ ကျေးဇူးရှင် ညောင်လွန့်တောရဆရာတော်ဘုရားကြီးက မကြာခဏ အမိန့်ရှိဆုံးမ ဩဝါဒပေးတတ်ကြောင်း ဆရာတော်ကြီးက အမိန့်ရှိဖူးပါသည်။

(ကျမ်းကိုး ၊ ယင်း စာ ၅၇ )

ရွှေဥဒေါင်းတောင်ဆရာတော်ဘုရားကြီးသည် အဘယ်ကြောင့် သုသာန်သို့ တရားသွားထိုင်ကြောင်း သိလိုသူများအတွက် အဖြေကောင်းတစ်ခုတွေ့ရှိရပါသည်။ ဖတ်ကြည့်ပါ။

ညောင်လွန့်တောရ ဆရာတော်ဘုရားကြီးသည် သုသာန်သို့သွားရောက်၍ တရားကျင့်ကြံအားထုတ်ခြင်းပြုဖူးသော ဦးပဥ္စင်း ဦးကုမာရအား တရားရှုမှတ်သည့်အလုပ်ကို မိမိကျောင်းနှင့် ဆိတ်ငြိမ်စွာ အရပ်တို့၌ လုပ်နိုင်ကြောင်း၊ သုသာန်သို့ မည်သည့် ရည်ရွယ်ချက်နှင့် သွားထိုင်ခြင်းဖြစ်ကြောင်း မေးတော်မူသည်။ သုသာန်သို့ လူသေကောင်များ၊ ပုပ်ပွနေသည့် အလောင်းကောင်များဖြင့် ထိတ်လန့်ကြောက်ရွံ့ဖွယ် အနိဋ္ဌာရုံများ ရှိနေသည်မှန်ပါကြောင်း၊ သို့သော် သုသာန်၌ရှိနေတွေ့နေသော လူသေကောင်၊ အလောင်းကောင် အနိဋ္ဌာရုံများထက် မိမိခန္ဓာကိုယ်တွင်း၌ရှိနေသော အသုဘကောင်များ အနိဋ္ဌာရုံများကို ကြောက်လန့်ပြီး အမြန်ဆုံး တရားမြင်တွေ့သည့် သုသာန်သို့ သွားထိုင်ခြင်းဖြစ်ပါကြောင်း လျှောက်ထားဖူးခဲ့ပါသည်ဟုသိရပါသည်။

(ကျမ်းကိုး ၊ ယင်း စာ ၅၇-၅၈)

**ညောင်လွန့်ဆရာတော်ဘုရားကြီးစောင့်ရှောက်တော်မူခြင်း ဂုဏ်ပတိတ်**

ညောင်လွန့်ဆရာတော်ဘုရားကြီးသည် မိမိ၏ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးဖြစ်ကြောင်း ရွှေဥဒေါင်းတောင်ဆရာတော်ဘုရားက မကြာခဏ ဖွင့်ဟဝန်ခံလေ့ရှိကြောင်း သိရှိရပါသည်။

ဦးပဥ္စင်း ဦးကုမာရအား ဆရာတော်ကြီး တောရကျောင်းမှ သူ၏မွေးရပ်ဌာနေ ရှမ်းပြည်နယ်သို့ အပြန်ခရီးတွင် မေတ္တာသက်ရောက်ကာ နှမြောချစ်ခင်စွာဖြင့် ညောင်လွန့် မီးရထားဘူတာမှ သာစည်ဘူတာအထိ ရထားပေါ်တွင် ကိုယ်တော်တိုင် စောင့်ရှောက်လိုက်ပို့တော်မူခဲ့လေသည်။ ညောင်လွန့်တောရ ဆရာတော်ကြီး အကြောင်း ညောင်လွန့်တောရဆရာတော်ဘုရားကြီး၏ ကျေးဇူးကြီးမားပုံအကြောင်း မကြာခဏ ထည့်ပြောလေ့ရှိသည်ကို ကြားသိခဲ့ရပါသည်။

(ကျမ်းကိုး ၊ ယင်း စာ ၅၈ )

ဆရာတော် ဦးကုမာရသည် ညောင်လွန့်တောရကျောင်းမှ ရှမ်းပြည်နယ် အင်းလေးဒေသ ကျားတွန်ရွာ ကျားတွန်ကျောင်းသို့ ပြန်ကြွလာခဲ့ပြီးနောက် ၇ နှစ်ကျော် ၈ နှစ်ခန့် ကျောင်းထိုင်ဆရာတော်အဖြစ်ဖြင့် ဆက်လက်သီတင်းသုံးတော် မူခဲ့ကြောင်းသိရှိရပါသည်။

(ကျမ်းကိုး ၊ ယင်း စာ ၅၈ )

ကျားတွန်ရွာ ကျားတွန်ကျောင်း၌ နှစ်ပေါင်း ၁၈ နှစ်ခန့် ကျောင်းထိုင်ဆရာတော်အဖြစ် တပည့်ရဟန်း ရှင်သာမဏေနှင့် ကျောင်းသားများအား သင်ကြားခဲ့သော ပရိယတ္တိစာပေ ပို့ချခြင်းအလုပ်ကို ယတိပြတ်စွန့်လွှတ်၍ ဤယနေ့မှအစပြုလျက် ပဋိပတ္တိအလုပ်ကို ဇောက်ချလုပ်တော့မည် ပိုင်းဖြတ်ကာ



ကျားတွန်ကျောင်းမှ တိတ်တဆိတ် တစ်ပါးတည်းထွက်ခဲ့လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၆၀ )

နားဋောင်းကျကျေးရွာကား ထိုအချိန်က အိမ်ခြေ အနည်းငယ်မျှသာရှိသော ရွာငယ်ဖြစ်သည်။ ကလေးမွေးတိုင်း အဖတ်မတင် ရွာတွင်တစ်ခုခုဖြစ်နေသည်ဟု အစွဲအလမ်း ချောက်ချောက်ချားချား ဖြစ်နေသောရွာဖြစ်သည်။ အင်းတိမ်ချောင်း အင်းတိမ်ရွာကြီးနှင့် မိုင်ဝက်ခန့် ဝေးလေသည်။ ရသော ဆွမ်းနှင့်ဆွမ်းဟင်းများကား ဆွမ်းသပိတ်တစ်ဝက်နှင့် ဟင်းနှစ်ခွက်ဖြစ်ပါလေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၆၈ )

ဆရာတော်သည် ထိုနေ့မှစ၍ နံနက်ဆွမ်းစားချိန်ရောက်တိုင်း ရွှေဥဒေါင်းတောင်အနီးရှိ ကျေးရွာများနှင့် အင်းလေးကန်ထဲမှ အင်းရွာများထိ လှည့်လည်ဆွမ်းခံကြွတော်မူသည်။ ဆရာတော် ဆွမ်းခံရပ်ကြွခဲ့သောရွာများမှ ရွှေဥဒေါင်းတောင်နှင့် နှစ်မိုင်ခရီးမှ ခြောက်မိုင်ခုနစ်မိုင်ခန့်ဝေးသည့် နားဋောင်းကျ စိန်ပန်းရွာ (ယခင်ပေါင်းချောင်)ကွေ့ဆောင်၊ ဆောင်မြင့်၊ နောင်ပိုးရွာ၊ အင်းတိမ်၊ အင်ကြင် ကုန်းရွာ၊ ကျေးပေါ်ခုံ၊ အင်းပေါ်ခုံနှင့် နမ့်ပန်ရွာများဖြစ်ကြသည်။ လှေကြုံ ခြေလျင်ကြွသည်က များသည်။

ကျားတွန်ရွာသို့ကား ဆရာတော်တောင်ပေါ်ရောက်၍ အတန်ကြာမှ ရံဖန်ရံခါ ဆွမ်းခံကြွတော် မူသည်။ ဆရာတော်သည် စိတ်အာရုံတွင် ထင်သည့်ရွာများကိုကြွတော်မူသည်။ ထို့ကြောင့် ဆွမ်း၊ ဆွမ်း ဟင်းများများရသည့်ရွာများရှိသလို မရသည့်ရွာများလည်းရှိခဲ့ပါသည်။ တစ်ခါတစ်ရံ ဆွမ်းချည်းရပြီး ဆွမ်းဟင်းမရခဲ့သည့် ရွာများလည်းရှိသည်။

## ဆွမ်းလောင်းသူမရှိ၍ ဆွမ်းတစ်နပ်ငတ်ပူးခြင်း

တစ်နံနက်ကဖြစ်သည်။ ဆရာတော်သည် ဤယနေ့ သုံးအိမ်ပဲ အစဉ်အတိုင်း ဆွမ်းခံရပ်မည်ဟု သန္နိဋ္ဌာန်ချကာ ရွာတစ်ရွာသို့ကြွသွားသည်။ ပထမ ဆရာတော် ဆွမ်းခံကြွရပ်သည့်အိမ်က ညကပွဲကြည့်ပြီး အိပ်ပျော်နေကြ၍ ဆွမ်းမရခဲ့။ ဒုတိယ ဆရာတော်ဆွမ်းခံရပ်ကြွသည့်အိမ်က လင်မယားစကားများနေ၍ ဆွမ်းမရခဲ့။ တတိယ ဆရာတော် ဆွမ်းခံရပ်ကြွသည့်အိမ်က အိမ်၌လူမရှိကြ၍ ဆွမ်းမရဘဲ ဆရာတော် ထိုနေ့က ရေအဝသောက်ပြီး ဆွမ်းတစ်နပ်ငတ်ခဲ့ရဖူးကြောင်းသိခဲ့ရသည်။

## ရွှေဥဒေါင်းတောင်ဆရာတော်၏ ပထမအောင်မြေ သဲကျင်းဂူ

ရွှေဥဒေါင်းတောင် ဆရာတော်ဘုရားကြီး၏ ပထမအောင်မြေ သဲကျင်းဂူမှာ ရွှေဥဒေါင်းတောင် စေတီ၏ရင်ပြင်တော်မြောက်ဘက်၌ ကပ်လျက်ရှိသောဂူဖြစ်ပါသည်။ ထိုဂူကို ဓမ္မရသဝိဟာရလိုဏ်ဂူခေါ် ကြောင်းသိရပါသည်။

ဆရာတော်သည် နံနက်တိုင်း မိမိသစ္စာပြု အဓိဋ္ဌာန်ထားသည့် ဆွမ်းအတွက် ဓုတင်များဆောင်ပြီးနောက် တောင်ပေါ်က ဘုရားငုတ်တို အနီး၌တွေ့ရသော အမိုး အကာမရှိသည့် သဲကျင်းဂူတစ်ခုအတွင်း၌ တရားရှုမှတ်ကျင့်ကြံ အားထုတ်တော် မူသည်။ သဲကျင်းဂူဆိုသည်မှာ ထိုတောင်ပေါ်ရှိ အလိုအလျောက်ဖြစ်ပေါ်နေသော တောင်လိုဏ်ဂူတစ်ခုဖြစ်သည်။ ဆရာတော် တောင်ပေါ်ရောက်လာစဉ် ပထမဆုံးတွေ့ ရသော ဂူ၊ ပထမဆုံး တရားကျင့်ကြံအားထုတ်ရာဂူလည်းဖြစ်ပါသည်။

ဆရာတော်သည် ရွှေဥဒေါင်းတောင်ပေါ်အရောက် ပထမ စတင် တွေ့ရသည့် ဤသဲကျင်းဂူအတွင်း၌ (၃ လနှင့် ၁၀ ရက် တိတိ) တရားကျင့်ကြံ



အားထုတ်တော်မူခဲ့သည်ဟု အမိန့်ရှိလိုက်ဖူးပါသည်။ ယခုအခါ ဓမ္မရသဝိဟာရ လိုဏ်ဂူအမည်ဖြင့် ရွှေဥဒေါင်းတောင်စေတီ၏ ရင်ပြင်တော်မြောက်ဘက်၌ ကပ်လျက်ရှိသော ဂူဖြစ်ပါသည်။ ပိုးရာသီအခါသမယ မိုးလည်းများတတ်သော ဒေသဖြစ်၍ ဆရာတော်သည် မိမိ အဓိဋ္ဌာန်ပြုထားသည့် သုသာန်ဓုတင်စခန်း ဝင်လိုက်၊ ရွှေဥဒေါင်းတောင်ပေါ်ရှိ သဲကျင်းဂူအတွင်းနှင့် အနီးအနားရှိ သစ်ပင်ရိပ် အောက်များ၌ ထိုင်လိုက်ဖြင့် တစ်လှည့်စီ တရားရှုမှတ်ခဲ့လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၇၀ )

## သက်န်းအပြင်ကို သစ်စေးများသုတ်၍ မိုးရေထဲ တရားထိုင်ခြင်း

ဆရာတော်သည် တရားထိုင် ဘာဝနာပွားသည့်အခါတိုင်းလိုလို မိုးနှင့်တိုးပြီး ရွဲရွဲစိုနေသောအခါ ကျန်းမာရေးငဲ့ပြီး မိုးတွင်းကာလတစ်လျှောက်လုံး တရားဆက်ထိုင်ရန် နည်းလမ်းရှာရ လေသည်။ မိမိ သင်္ကန်းတစ်ဖက် (အပြင်)ပိုင်းကို သစ်စေးများသုတ်၍ တစ်ကိုယ်လုံးလွှမ်းခြုံပြီး တရားထိုင်ရလေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၇၁ )

ထိုအခါ တစ်ကိုယ်လုံးရွဲစိုနေအောင် ရွာတတ်သောမိုးရေတို့သည် သစ်စေးသုတ်လိမ်းထားသော သင်္ကန်းပေါ်တွင် အလိုအလျောက်စီးဆင်းသွားသည်။ ရံဖန်ရံခါ မိုးလေကင်းစင်သော ညအခါများတွင် ဆရာတော်တရားထိုင်နေရာသို့ မှဲ့၊ ခြင် အကောင်မျိုးစုံတို့သည် ဆရာတော်၏ လက်ဖျား၊ လက်မောင်းနှင့် မျက်နှာ လည်ပင်းတို့တွင် သဲသဲမဲမဲ ကိုက်တွယ်တတ်ကြပေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၇၁ )

## မှက် ခြင်တို့ကြောင့် မယားခြင်း အံ့ဖွယ်

ယင်းတို့အနက် အင်းလေးတစ်ကြောမှ ခြင်ကောင်မှာ အကောင်ကြီး အဆိပ်ပြင်းသော ခြင်မျိုးဖြစ်သည်။ ကိုက်တွယ်ခံရလျှင် အသည်းခိုက်လောက်အောင်နာကျင်သည်။ ဤသို့တိုင်အောင် ဆရာတော်က မလှုပ်၊ မပုတ်၊ မခြောက်၊ မလှန့်ဘဲ မိမိအဓိဋ္ဌာန်အပျက်မခံခဲ့ပေ။ ထူးခြားသည်ကား ဆရာတော် ထိုသို့ မှက်၊ ခြင်ကောင်များ တရားထိုင်၊ တရားရှုမှတ်နေစဉ် ကိုက်တွယ်နေကြသော်လည်း တရားထိုင်ပြီးသည့်အချိန်တွင် နာသည်မရှိ၊ ယားယံသည်မရှိ၊ ဒဏ်ရာအနာတရလည်းမဖြစ်ဖူးကြောင်းသိခဲ့ရသည်။

(ကျမ်းကိုး ၊ ယင်း စာ ၇၁ )

## ကျားရဲ ကျားသစ်များနှင့် ဥဒေါင်းများ

ထိုထက်ထူးခြားသည်ကား ဆရာတော် ရွှေဥဒေါင်းတောင်ပေါ်ရောက်စက မကြာခဏ ဟိန်းဟောက်အော်မြည်တတ်ကြသော ကျားရဲကျားသစ်သတ္တဝါအကောင်များသည် ထိုတောင်ပေါ်တွင် ဆရာတော် တရားထိုင်၊ မေတ္တာဘာဝနာပွားသည့်အချိန်မှစ၍ အော်မြည်ခြင်းမရှိတော့သည့်အပြင် တောပြောင်းသွားကြသောကြောင့် တောင်ပေါ်တွင် ဆရာတော်နှင့်အတူ ဥဒေါင်းကောင်များနှင့် ကျေးငှက်များသာ ကျန်ရှိနေကြလေသည်။

(ကျမ်းကိုး၊ ယင်း စာ ၇၁)



## ဥဒေါင်းများ တောင်ပံဖြန့်၍ နေရိပ်ပြုလုပ်ပေးခြင်း အံ့ဖွယ်

မိုးလေဝသ ကင်းစင်သည့်အချိန်၌ ဆရာတော်တရားထိုင်နေသည့် အခါမျိုးတွင် ရံဖန်ရံခါ ဥဒေါင်းကောင်များသည် ဆရာတော်အနီးအနား သစ်ပင်နှင့်တောင်စောင်းများပေါ်မှ လှုပ်သောသူတို့၏ အမြီးများ တောင်ပံများယှက်ဖြာ၍ အရိပ်သဖွယ် နေပြောက်မထိုးအောင်ကာကွယ်ပေးတတ်ကြသည်ဟု ကြားဖူးခဲ့သည်။ ယင်းအကြောင်းမေးလျှောက်ကြည့်သောအခါ ဆရာတော်ဘုရားကြီးက အေး သူတို့ပျော်လို့ ကကြတာပေါ့ကွယ်ဟု တိုက်ရိုက်ဖွင့်မပြော၊ သွယ်ဝိုက်အမိန့်ရှိလိုက်လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၇၂ )

ဆရာတော် ကျားတွန်ရွာသို့ ဆွမ်းခံကြွသွားသည့်အချိန်တွင် ဆရာတော်အား ကြည်ညိုလေးစားသော ကျောင်းဒကာမဲ စသည့်ရွာလူကြီးများ မျက်နှာပျက်ရမည့် အစီအစဉ်တစ်ခု ရွာသူရွာသားအချို့က စီစဉ်ချမှတ်ထားနှင့်ကြလေသည်။ အစီအစဉ်နှင့် တိုင်ပင်လုပ်ကိုင်ထားကြပုံမှာ ဆရာတော် ဦးကုမာရ ဆွမ်းပြတ်ဆွမ်းမရလျှင် ကျားတွန်ရွာသို့ ပြန်ကြွလိမ့်မည် အယူအဆတို့ဖြင့် ဒီကနေ့ ဆရာတော် ဆွမ်းခံကြွလာလျှင် မည်သူမျှ ဆွမ်းမလောင်းကြရန် တိုင်ပင်ဆုံးဖြတ်ထားကြခြင်း အစီအစဉ်ဖြစ်သည်။

(ကျမ်းကိုး ၊ ယင်း စာ ၇၃ )

ရွှေဥဒေါင်းတောင်ပေါ်မှ ကျားတွန်ရွာအရောက် ဆရာတော် ဆွမ်းခံကြွလာသည့် နှစ်မိုင်ကျော်ခရီးလမ်းတွင် ဆရာတော်အား ဆွမ်းလောင်းရန် ကျေးရွာ၊ လူသူဟူ၍မရှိ တောချည်းသာရှိနေခြင်းကြောင့်ဖြစ်သည်။ သို့သော် ကျားတွန်ရွာသို့ရောက်သောအခါ ဆွမ်းသပိတ်ပြည့် ဖြစ်နေသဖြင့် ဒေါ်ဟန်တို့သုံးဦးသည်လည်း ဤတောတောင်အရပ်တွင် မည်သူတွေက ဆရာတော်အား ဆွမ်းလောင်းလှူလိုက်ကြသလဲ တွေးမရအောင် ဖြစ်ကျန်ရစ်ခဲ့ကြလေသည်။ ထိုနေ့မှစ၍ ကျားတွန်ရွာ တစ်ရွာလုံး ထူးခြားချက်များ ပြုပြင်ပြောင်းလဲလာခြင်းပင်ဖြစ်သည်။

(ကျမ်းကိုး ၊ ယင်း စာ ၇၅ )

ဆရာတော်သည် ရွှေဥဒေါင်းတောင်ပေါ် ရောက်ခဲ့သည့်အချိန်မှစပြီး မိမိကျင့်ကြံအားထုတ်ပြုလုပ်ရမည့် နေ့စဉ် နိစ္စပတ်ဝတ်များကို ဤသို့ပြုလုပ်ဆောင်ရွက်တော်မူခဲ့သည်။

## ရွှေဥဒေါင်းတောင်ဆရာတော်ဘုရားကြီး၏ ၂၄ နာရီ အသုံးချပုံချနည်း

နေ့စဉ်ကျင့်ဝတ်များ ညနေ ၆ နာရီမှ ၉ နာရီတိတိ ဘုရားဝတ်ပြု မေတ္တာဘာဝနာပွား၍ ပရိတ်တော်များ ရွတ်ဖတ်သရဇ္ဈာယ်တော်မူသည်။ ညဦးယံ ၉ နာရီမှ သန်းခေါင်ယံ ၁၂ နာရီအထိ သုသာန်(သချိုင်း)သို့သွား၍ အသုဘကမ္မဋ္ဌာန်းထိုင်တော်မူသည်။ သန်းခေါင်ယံ ၁၂ နာရီမှ အရုဏ်ဦး ၃ နာရီထိ ရွှေဥဒေါင်းတောင်သို့ပြန်ကြွ၍ ကျိန်းစက်အနားယူတော်မူသည်။ အရုဏ်ဦး ၃ နာရီမှ နံနက် ၆ နာရီ ဘုရားဝတ်ပြု မေတ္တာဘာဝနာပွား၍ ပရိတ်တော်များရွတ်ဖတ်သရဇ္ဈာယ်တော်မူသည်။

(ကျမ်းကိုး ၊ ယင်း စာ ၇၆ )

## အများအတွက် ရွှေဥဒေါင်းတောင် ကျင့်စဉ်

နံနက် ၇ နာရီတွင် တောင်ပေါ်မှတောင်အောက်မြေပြန့် အင်းလေးဝန်းကျင်ရှိ ကျေးရွာများသို့ ဆွမ်းခံရန် ကြွတော်မူသည်။ ဆရာတော်၏ နေ့စဉ် နံနက်အရုဏ်ဦး၊ ညဦးယံအချိန်တွင် ဘုရားဝတ်ပြုသည့်



အစီအစဉ်မှာအောက်ပါအတိုင်းဖြစ်သည်ဟု လေ့လာတွေ့ရှိရပါသည်။

(၁) နမောတဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ သုံးကြိမ်ရွတ်သည်။

(၂) ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ ဓမ္မံ သရဏံ ဂစ္ဆာမိ၊ သံဃံ သရဏံ ဂစ္ဆာမိ။ ဒုတိယမ္ပိ၊ တတိယမ္ပိ ရွတ်ဆိုသည်။

(၃) ဣတိပိသော ဘုရားဂုဏ်တော်၊ သွာက္ခာတော တရားဂုဏ်တော်၊ သုပ္ပဋိပန္နော သံဃာ့ဂုဏ်တော်များကိုရွတ်ဆိုလေသည်။

(၄) ထို့နောက်မှ ဩကာသ စသည်ဘုရားကိုရှိခိုးပူဇော်ခြင်းပြုတော်မူသည်။

(၅) ထို့နောက် အပြင်အောင်ခြင်း၊ အတွင်းအောင်ခြင်း၊ ရတနာရွှေချိုင့်၊ ပရိတ်ကြီး ၁၁ သုတ်၊ ဗုဒ္ဓဗောဇ္ဈင်္ဂသုတ်၊ မောဂ္ဂလ္လာန ဗောဇ္ဈင်္ဂသုတ်၊ ကဿပ ဗောဇ္ဈင်္ဂသုတ် မဟာသမယသုတ်တို့ကို အမြဲရွတ်ဖတ်တော်မူ၍ ဓမ္မစကြာသုတ် အနတ္တလက္ခဏသုတ်၊ အဘိဏှသုတ်၊ မဟာသတိပဋ္ဌာနသုတ်၊ ဆဒ္ဒိသာပါလသုတ်၊ စက္ကပရိတ်၊ ပရိမိတ္တဇာလသုတ် ပထဝီဇယမင်္ဂလာန်များကို ရံဖန်ရံခါ တစ်လှည့်စီ ရွတ်ဖတ်တော်မူလေသည်။

(၆) ထို့နောက် ဆရာတော်သည် 'ယဿနုဘာဝတော ယက္ခာ အစ နဟိ ဇာတုဂစ္ဆ သေယျ ပုန ရေတိ' အဆုံး မေတ္တာသုတ်ကို ပါဠိလိုရွတ်ဆို ပွားများ၍ မြန်မာလို အနောဒိဿာသဒိဿ အကုန်မေတ္တာပို့တော်မူသည်။

(ကျမ်းကိုး ၊ ယင်း စာ ၇၈ )

## နားငှောင်းကျကျေးရွာ သုသာန်တွင် တရားပွားများ အားထုတ်ခြင်း

ဓုတင် ၇ ပါးကျင့်စဉ်နှင့်တကွ တရားမရမချင်း ဤတောင် (ရွှေဥဒေါင်းတောင်)ပေါ်မှ ဘယ်မှ မကြွဟု အဓိဋ္ဌာန်ပြု၍ ဆရာတော်တစ်ပါးတည်း တောင်ပေါ်၌ သီတင်းသုံးကျင့်ကြံအားထုတ် နေစဉ်မှာပင် ဆရာတော်သည် နေ့စဉ် နေ့ခင်း နေ့ပိုင်းအချိန်များ၌ တောင်ပေါ်ရှိ ဘုရားငုတ်တို့မှ ချုံနွယ်ပိတ်ပေါင်းများ ရှင်းလင်းခြင်း၊ လက်လှမ်းမီသမျှပြုပြင်ခြင်း ဝေယျာဝစ္စများဆောင်ရွက်ပြီးစီးသည်နှင့် ညဦးယံသတ်မှတ်ထားသည့်အချိန်တွင် ရွှေဥဒေါင်းတောင်နှင့်အနီးဆုံးရွာတစ်ရွာဖြစ်သော နားငှောင်းကျကျေးရွာ သုသာန် (သင်္ချိုင်း)သို့ကြွ၍ သုသာန်ဓုတင် ကမ္မဋ္ဌာန်းတရား ပွားများအားထုတ်တော်မူသည်။

## ထူးဆန်းသော ကလေးငိုသံ

တစ်ညဦး၌ ဆရာတော် ရှုမှတ်နေသည့် သင်္ချိုင်းကုန်းရှိ အရိုးဆွေးအရိုးမြေ့ထဲမှ ရုတ်တရက် ကလေးငိုသံကြားလိုက်ရသည်။ ဆရာတော်သည် ငိုသံထွက်ပေါ်လာသော ထိုအရိုးဆွေးကိုယူ၍ တင်ပျဉ်ခွေအောက် ခုထိုင်ပြီး သဗ္ဗေသတ္တာကမ္မဿကာ တရားသဘောနှလုံးသွင်း၍ မေတ္တာပို့ဝေလိုက်သောအခါကျမှ အရိုးဆွေးမှ ကလေးငိုသံများ တိတ်ဆိတ်ပျောက်ကွယ်သွားသည်။ နားငှောင်းကျရွာတွင် ရှေးယခင် ကလေးသူငယ်များမွေးဖွားတိုင်း အဖတ်မတင် အသက်မရှင်ဖြစ်ခဲ့သည်။ ဆရာတော် သုသာန်ဓုတင်ဆောင်၍ ယင်းသုသာန်သို့ တရားအားထုတ် ကြွလာသောအခါမှ မွေးဖွားသော ကလေးများ အဖတ်တင် အသက်ရှင်ခဲ့ကြသည်ဟု ရွာခံများထံမှ ကြားသိရသည်။

ဆရာတော် သုသာန်(သင်္ချိုင်း)များတွင် သုသာန်ဓုတင် ကမ္မဋ္ဌာန်းဘာဝနာပွားများ ရှုမှတ်နေစဉ် အခါမျိုးတွင် ဖော်ပြခဲ့သော နားငှောင်းကျကျေးရွာ သုသာန်မှ ကလေးအလောင်း ငိုသံမျိုး ကြားရသကဲ့သို့



ဆရာတော်ကျင့်ကြံအားထုတ်ခဲ့သော သုသာန်တိုင်းလိုလိုမှာပင် လူကြီးညည်းညူသံများ ထိတ်လန့်တကြား အော်ဟစ်လိုက်သည့် ယောကျ်ားမိန်းမအသံမျိုးများ မကြာခဏကြားရတတ်သည်။

(ကျမ်းကိုး ၊ ယင်း စာ ၈၂-၈၃ )

## နတ်သမီးအလောင်းကောင်နှင့် အချောအလှများပြခြင်း

ရံဖန်ရံခါ ယင်းသုသာန်သချိုင်းတို့၌ မကျွတ်မလွတ်ဖြစ်နေကြသော နာနာဘာဝ ဝိနာဘာဝတို့က ဆရာတော်အား အမျိုးမျိုးသော အနှောင့်အယှက်ပေးခြင်း၊ ကြောက်မက်ဖွယ် ပုံသဏ္ဌာန်ဖန်ဆင်း၍ ကိုယ်ယောင်ထင်ပြခြင်း၊ ခြောက်လှန့်ခြင်း၊ တစ်နည်း ဥဂ္ဂဟနိမိတ်၊ သမထနိမိတ် ရှိမရှိပြခြင်း၊ ပဋိဘာဂ နိမိတ် နတ်သမီးအလောင်းကောင် မကောင်းဆိုးရွားများနှင့် အချောအလှပြခြင်းမျိုး ကြုံတော်မူရကြောင်း အမိန့်ရှိဖူးသည်။

(ကျမ်းကိုး ၊ ယင်း စာ ၈၉ )

၁၉၃၈-၁၉၄၈ ဆရာတော်သည် ဤသုသာန်ဓုတင်ကျင့်စဉ် အသုဘကမ္မဋ္ဌာန်းဘာဝနာ ရှုပွားခြင်းလုပ်ငန်းကို ဆရာတော်တောသို့ ထွက်လာသည့် အေဒီ ၁၉၃၈ - ၁၉၄၈ ခု (သက္ကရာဇ် ၁၃၀၀ ပြည့်နှစ်)မှစ၍ သက္ကရာဇ် ၁၃၁၀ ပြည့်နှစ်အထိ နှစ်ပေါင်း ၁၀ နှစ်ကာလ ပတ်လုံး ညစဉ်ညတိုင်း မပျက်မကွက် ကျင့်ကြံအားထုတ်တော်မူခဲ့လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၉၀)

## သစ်စေးသုတ်သော သင်္ကန်းနှင့် ၁၀ နှစ်တာ ကာလ

မိုးတွင်းအခါ မိုးရွာလျှင် သစ်စေးသုတ်ထားသော သင်္ကန်းခြုံ၍ တရားထိုင်ခဲ့သည်။ မိုးကြောင့် လေကြောင့်ဟု အပျက်မခံခဲ့ပေ။ ထိုသို့ ၁၀ နှစ်တိတိကာလပတ်လုံး ဆရာတော် သုသာန်ဓုတင် အသုဘကမ္မဋ္ဌာန်းပွားများအားထုတ်ခြင်း ပြုခဲ့သည့်ရွာများမှာ ကျားတွန်းရွာ သုသာန်၊ ရွာကြီးသုသာန်၊ အင်းတိမ်ရွာ သုသာန်၊ နားမှောင်းကျရွာသုသာန်၊ တောင်ပို့နီရွာသုသာန် အင်ကြင်းကုန်းရွာသုသာန် ကျေးပေါ်ခုံရွာ သုသာန်များဖြစ်ကြောင်း အမိန့်ရှိလိုက်လေသည်။

## ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီးတွင် ပါဝင်ခဲ့ခြင်း

ဆရာတော်သည် သက်တော် ၆၅ နှစ်အတွင်းက ရန်ကုန်မြို့ သီရိမင်္ဂလာ ကမ္ဘာအေးကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်အတွင်း၌ မြန်မာ၊ သီဟိုဠ် (သီရိလင်္ကာ)၊ ယိုးဒယား (ထိုင်း)၊ ကမ္ဘောဒီးယား (ကမ်းပူးချား)နှင့် လော(လာအို) ငါးနိုင်ငံ ကြီးမှူး၍ ကျင်းပပြုလုပ်သော ဆဋ္ဌသင်္ဂါယနာတင် ပွဲတော်သို့ ရှမ်းပြည်နယ် ဂိုဏ်းပေါင်းစုံ သံဃာတော်များ ကိုယ်စားလှယ်အဖြစ် သံဃနာယကအဖွဲ့တွင် ပါဝင် ဆောင်ရွက်တော်မူခဲ့သည်။

၁၉၅၄-၅၆ ဆဋ္ဌသင်္ဂါယနာ ပြုလုပ်ခဲ့သော နှစ်ကား အေဒီ ၁၉၅၄ ခု (ကောဇာသက္ကရာဇ် ၁၃၁၆ ခုနှစ် ကဆုန် လပြည့်နေ့)မှစ၍ သာသနာတော်နှစ် ၂၅၀၀ ပြည့်သော အေဒီ ၁၉၅၆ ခု (သက္ကရာဇ် ၁၃၁၈ ခုနှစ် ကဆုန်လပြည့်နေ့)အထိ ကျင်းပခဲ့ခြင်းဖြစ်လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၉၃)



## ပထမဆုံး ကုသိုလ်တော်

၁၉၃၈ - ၃၉ ဆရာတော် ရွှေဥဒေါင်းတောင်ပေါ်အရောက် ပထမဆုံး စတင်ပြုလုပ်ခဲ့သော သာသနာပြုလုပ်ငန်းကား ရွှေဥဒေါင်းတောင် စေတီဘုရား တည်ဆောက်ခြင်း ဖြစ်သည်။ တောင်ပေါ်၌တွေ့ရသော ဘုရားငုတ်တိုနေရာတွင် ချုံနွယ်ပိတ်ပေါင်းများ ရှင်းလင်း၍ အေဒီ ၁၉၃၈ (သက္ကရာဇ် ၁၃၀၀ ပြည့်နှစ် အကုန် အေဒီ ၁၉၃၉ ခု (၁၃၀၁ ခုနှစ်) အကူးတွင် စတင်တည်ခဲ့ခြင်းဖြစ်သည်။ ဆရာတော်သည် ရွှေဖြင့် ပြုလုပ်ထားသော ရွှေဥဒေါင်းရုပ်များအတွင်း၌ မြတ်စွာဘုရား၏ ဓာတ်တော်များ ဌာပနာ၍ စေတီတော်၏ထောင့်လေးထောင့်တွင် ဥဒေါင်းရုပ်လေးရုပ်ပြုလုပ်ကာ လှူဒါန်းပူဇော်ထားလေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၉၄ )

## ဓာတ်တော်ကွန့်မြူးသည်ကို မီးလောင်သည်ဟု ထင်ကြခြင်း

ရွှေဥဒေါင်းတောင်ပေါ်တွင် မီးလောင်နေသည့် အထင်ဖြင့် မီးသတ်ပစ္စည်းများ ယူဆောင်လျက် ရောက်လာရာ မီးလောင်ခြင်းမဟုတ်ကြောင်း အံ့ဖွယ်ဖြစ်ရပ်တစ်ခုဖြစ်ခဲ့ဖူးပါသည်။

ရွှေဥဒေါင်းတောင် စေတီအတွင်း ဓာတ်တော်များ ဌာပနာပြီးစဉ်က တစ်ညဦး အချိန်တွင် ဓာတ်တော်များကွန့်မြူးကာ တစ်တောင်လုံးလင်းနေသဖြင့် ရွှေဥ ဒေါင်းတောင်နှင့် နှစ်မိုင်ကျော်ဝေးသော ကျားတွန်ရွာမှ ရွာသူရွာသားများက တောင်ပေါ်၌ မီးလောင်နေသည့်အထင်ဖြင့် ရေနှင့်မီးသတ်ရန်ပစ္စည်းများ ယူဆောင်၍ ရောက်လာကြဖူးကြောင်းသိခဲ့ရသည်။

(ကျမ်းကိုး ၊ ယင်း စာ ၉၅)

၁၉၅၂ ဆရာတော်ဘုရားကြီးသည် တောထွက်ခဲ့သည့်အချိန်မှစ၍ ၁၄ နှစ်တိတိ သက်ကယ် ကျောင်းနှင့် သီတင်းသုံးနေထိုင်တော်မူခဲ့သည်။ အေဒီ ၁၉၅၂ ခု (သက္ကရာဇ် ၁၃၁၄ ခုနှစ်)တွင် ပထမအုတ်တိုက်ကျောင်းဆောက်၍ ပြောင်းရွှေ့ သီတင်းသုံးတော်မူခဲ့သည်။ ယခုတောင်ပေါ်ရှိ ပထမ ကျောင်းနေရာအဆောက်အအုံ ဖြစ်လေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၉၆)

## ရေလှူသော နတ်မောင်နှမ

ဆရာတော်ကြီးသည် ရွှေဥဒေါင်းတောင်ပေါ် ရောက်လာစဉ်က သောက်ရေ သုံးရေအတွက် ရေမရှိချေ။ ရွှေဥဒေါင်းတောင်နှင့် နှစ်မိုင်ကျော်ဝေးသော ကျားတွန်ရွာမှ ဆရာတော်ကြီးအား ကြည်ညို လေးစားကြသော ဒါယကာ ဒါယိကာမများက အလှည့်ကျအထမ်းဖြင့် ရေကိုသယ်၍ တောင်ပေါ်သို့ ပို့လှူကြလေသည်။

၁၉၆၃ တောင်ပေါ်တွင် ရေလုံလောက်ရုံမျှသာရှိသည်။ အပိုအလျှံမရှိ။ အပိုအလျှံလည်း လှောင်ထားနိုင်သော ရေကန်မရှိပေ။ ဆရာတော်ကြီးသည် လွန်ခဲ့သော အေဒီ ၁၉၆၃ (၁၃၂၅ ခုနှစ်)နွေအခါကာလ တစ်နေ့သောနေ့ခင်းပိုင်းတွင် ဤရွှေဥဒေါင်းတောင်ပေါ် တွင် ရေအစဉ်မပြတ်ရရှိရေးအတွက် ကျားတွန်ရွာ ဒါယကာ ဒါယိကာမများနှင့် ညှိနှိုင်းတိုင်ပင် ဆွေးနွေးတော်မူလေသည်။



ကွေ့တောင်ရွာမရွာ၏ အနောက်ဘက်ကြားနှင့် သပြေရေထွက်ရွာ၏ အရှေ့ဘက်ကြားတွင် တည်ရှိသော ရေထွက်ရာတောင်သည် ရွှေဥဒေါင်းတောင်ထက် အနည်းငယ် ခန့်မှန်းပေ ၈၀ မျှ အမြင့်ပိုလျက်ရှိနေသည်။ ထိုရေထွက်ရာတောင်ကိုလည်း သပြေရေထွက်တောင်ဟု ခေါ်ဝေါ်ကြလေသည်။ အလိုအလျောက်ထွက်နေသော စိမ့်စမ်းရေထွက်တစ်ခုဖြစ်သည်။

ရွှေဥဒေါင်းတောင်၏ အနောက်တောင်ဘက် ၇ မိုင်ခန့် ဝေးကွာသော အဆိုပါ သပြေရေထွက်တောင်မှ ရေများကို ပိုက်လုံးဖြင့်သွယ်၍ တောင်ပေါ်အရောက်သယ်ယူရန် ဆရာတော်ကြီး၏ အကြံအစည်ကို ဆရာတော်ကြီးက ကျားတွန်းရွာ ဒါယကာ ဒါယိကာမများကို တင်ပြလိုက်သည်။

ရုတ်တရက် ဆရာတော်ကြီး၏ အကြံအစည်ကို သိလိုက်ကြသော ရွာဒါယကာ ဒါယိကာမများတို့သည် ထိတ်လန့်အံ့သြခြင်းဖြစ်သွားကြလေသည်။ အကြောင်းကား ထိုသပြေရေထွက်အောက်ရှိ ရေထွက်စခန်းတွင် လူပုဂ္ဂိုလ်နှင့် ကျွဲ၊ နွား၊ တိရစ္ဆာန်များမှအစ မည်သူတစ်ဦးတစ်ယောက် နှုတ်ဆေးလုပ်ကျင်းခြင်း၊ ခြေလက်ဆေးကြောခြင်းများ မပြုလုပ်ဝံ့ကြသည့်အပြင် ကြမ်းတမ်းစွာပြောဆိုခြင်း၊ မကောင်းသောစရိုက်ပြုလုပ်ခြင်းများကို မည်သူမျှမပြုလုပ်ဝံ့ကြချေ။ အကယ်၍ ပြုလုပ်သည်ရှိသော် ပြုလုပ်သူ ပုဂ္ဂိုလ် သတ္တဝါမရွေး တစ်ခုခုသောဘေးအန္တရာယ်မျိုးနှင့် ကြုံတွေ့တတ်ပုံအဖြစ်စုံကို ရွာသူရွာသားများက သိနှင့်ထားကြသောကြောင့်ဖြစ်သည်။

အရှင်ဘုရားဖြစ်ပါ့မလားဟု ရွာဒါယကာ ဒါယိကာမများက သပြေပင်ရေထွက်တောင်အကြောင်းကို ဖွင့်ပြောလျှောက်တင်ပြကြရင်း စိုးရိမ်စွာမေးကြသည်။ ဆရာတော်ကြီးက ငါ့တာဝန်ထားငါတောင်းယူမည်ဟု ပြန်လည်မိန့်တော်မူသည်။

**သပြေရေထွက်တောင်မှ ရေရရှိရေးဆက်သွယ်ရေးအတွက် ဆွေးနွေးကြသည့် ထိုညသန်းခေါင်ယံမှာပင် ဆရာတော်ကြီးသည် ပြုနေကျအလုပ်ဖြစ်သော ကမ္မဋ္ဌာန်းဘာဝနာတရားအားထုတ်ပြီးချိန်တွင် တစ်ကိုယ်လုံးအဝတ်ဖြူများသာ ဝတ်ဆင်ထားကြသည့် ထူးဆန်းသောအဘိုးအို အဘွားအိုနှစ်ဦး ဆရာတော်ကြီး တရားထိုင်နေသည့်အနီးသို့ လက်အုပ်ချီလျက်ချဉ်းကပ်ရောက်လာကြပြီး တရားချီးမြှင့်ပါ ဘုရားဟုလျှောက်ထားကြသည်။**

ဆရာတော်ကြီးကလည်း ငါးပါးသီလပေး၍ တရားချီးမြှင့်သည်။ ဆရာတော်ကြီး တရားဟောပြချီးမြှင့်ပြီးသည့်အချိန်တွင် အဘိုးအို အဘွားအိုတို့က သာဓု အနုမောဒနာ သုံးကြိမ်ခေါ်ပြီး ဆရာတော်ကြီးအလိုရှိရာ မိန့်တော်မူပါရန် လျှောက်ထားကြသည်။ ထိုအခါ ဆရာတော်ကြီးက ဒကာတို့ ဘယ်ရွာကလဲဟုမေးသည်။ အဘိုးအိုအဘွားအိုတို့က တပည့်တော်တို့ သပြေရေထွက်ကပါဘုရားဟု လျှောက်တင်ကြသောအခါ ဆရာတော်ကြီးက တောင်ပေါ်မှာရေလိုကြောင်း ရေရလိုကြောင်း မိန့်တော်မူလိုက်သည်။

ရပါသည် ယူတော်မူပါဘုရားဟုလျှောက်တင်ပြီးဦးချကာ အဘိုးအို အဘွားအိုတို့ ပြန်သွားကြလေသည်။ သပြေရေထွက်တောင်အစောင့် နတ်မောင်နှမ အဘိုးအို အဘွားအိုတို့က လျှာသွားသောရေများသယ်ယူရေးအတွက် ရေပိုက်လုံးများ တပ်ဆင်ကြရလေသည်။

၁၉၆၄ သပြေရေထွက်စခန်း သပြေရေထွက်နေရာမှ ရွှေဥဒေါင်းတောင်ထိပ်ပေါ်သို့ တောင်များဖြတ်ကျော်၍ သွယ်ယူခဲ့ရသော ရေပိုက်လုံးပေါင်းမှာ ၁၃၇၆ လုံးရှိ၍ ပေအရှည်ပေါင်း ၂၂၃၆၀ ပေ ရှိလေသည်။ ရွှေဥဒေါင်း တောင်ပေါ်သို့ အင်ဂျင်မီးစက် (မြင်းကောင်ရေ ၁၆ ကောင်အား)စတင်ထွန်းခဲ့သည့် နှစ်ကား အေဒီ ၁၉၆၄ ခု (သက္ကရာဇ် ၁၃၂၆ ခုနှစ်)အတွင်းကဖြစ်သည်။ ယခင် ၁၄ နှစ် ကာလပတ်လုံး အောက်လင်းဓာတ်မီးထွန်းညှိအသုံးပြုခဲ့ရလေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၉၉-၁၀၀ )



တောင်ပေါ်သို့ လူဘယ်နှယောက်သွားသွား၊ ဘယ်နှဖွဲ့ ဘယ်နှအုပ်စုတက်တက်၊ ရွှေဥဒေါင်းတောင်ပေါ်သို့ ခြေချနင်းမိသည်နှင့် အမောပြေရေအေးအေး တောင်ကျစမ်းရေများကလည်း တောင်ပေါ်မှာအဆင့်သင့်၊ ရွက်သစ် ရွက်ညွန့် လက်ဖက်ခြောက်တို့ဖြင့် ခပ်ကျိုထားသော ရေနွေးကြမ်း (အခါးရည်) အိုးတို့ကလည်း အဆင်သင့်။ အိုးကြီး အိုးငယ်များကလည်း အဝင်ဝ ထမင်းစားဆောင်တွင် အဆင်သင့်၊ သောက်မကုန် စားမကုန်ဝင်၍ စားနိုင်သောက်နိုင်ကြပေသည်။

ဆရာတော်ကြီး သီတင်းသုံးနေသော ရွှေဥဒေါင်းတောင်ပေါ်တွင် ဆရာတော်ကြီးအား အဖူးအမြော်ရောက်လာသူ ဧည့်သည်မှန်သမျှ ကျွေးမွေးရန် ဆွမ်းချက်ဆောင် သီးသန့်နှင့် ဆွမ်းချက်သူ (ထမင်းဟင်းချက်သူ၊ ကျွေးမွေးသူ) အလုပ်သမားပေါင်း ၁၀ ဦးခန့် အမြဲထားရှိသည်။ နာရီမလပ် မီးဖိုကြီးများပေါ်တွင် ပေါင်းနေသော ထမင်းပေါင်းအိုးကြီးများမှာလည်း ရှစ်လုံးခန့်ဖြစ်သည်။

၁၉၈၀ တောင်ပေါ်သို့ ဆရာတော်ကြီးအား ဖူးမြော်ကန်တော့ရန် ရောက်လာကြသူများအား ချက်ပြုတ်ကျွေးမွေးရသည့် ဆန်တင်းပေါင်း နေ့စဉ် ၁၅ တင်းမှ တင်း ၃၀ ကျော်အထိ ကုန်သည်ဟုသိခဲ့ရသည်။ မှတ်မှတ်သားသား ဂဏန်းနှင့်တကွဖော်ပြရလျှင် ၁၉၈၀ ပြည့် အောက်တိုဘာလ (၁၃၄၂ ခုနှစ် သီတင်းကျွတ်လ)အတွင်းက ရွှေဥဒေါင်းတောင်ပေါ်သို့ ဆရာတော်ဘုရားကြီးအား ဖူးမြော်ကန်တော့ရန် ညအိပ်လာသွားကြသော ဧည့်ပရိသတ်များမှာ သီတင်းကျွတ်လပြည့်နေ့ညတွင် ၂၅၉ ဦး၊ လပြည့်ကျော် ၁ ရက်နေ့တွင် ၆၀၅ ဦး၊ လပြည့်ကျော် ၂ ရက်နေ့တွင် ၈၅၀၊ လပြည့်ကျော် ၃ ရက်နေ့တွင် ၇၀၇၊ လပြည့်ကျော် ၄ ရက်နေ့တွင် ၆၂၄၊ လပြည့်ကျော် ၅ ရက်နေ့တွင် ၇၈၇၊ လပြည့်ကျော် ၆ ရက်နေ့တွင် ၁၀၇၄၊ လပြည့်ကျော် ၇ ရက်နေ့တွင် ၁၆၅၀၊ လပြည့်ကျော် ၈ ရက်နေ့တွင် ၅၅၀ ဟု စာရင်းအရ သိခဲ့ရလေသည်။

(ကျမ်းကိုး ၊ ယင်း စာ ၁၀၃ )

၁၉၈၅ မျက်မှောက်ခေတ် ပရိယတ် ပဋိပတ် သာသနာတော်တွင် နေ လ အသွင် သီလ သမာဓိ ပညာ သိက္ခာသုံးပါးဂုဏ်တို့ဖြင့် ပြည့်စုံထင်ရှားတော်မူသော အင်းလေး ရွှေဥဒေါင်းတောင် ဆရာတော် ဘုရားကြီးသည် သက်တော် ၉၄ နှစ်၊ သိက္ခာတော် ၃၇ ဝါအရ အေဒီ ၁၉၈၅ ခု၊ နိုဝင်ဘာလ ၃ ရက်၊ (၁၃၄၆ ခု၊ ပြာသိုလဆန်း ၁၃ ရက်နေ့) ညဥ့် ၁၀း၄၅ နာရီအချိန်၌ ဘဝနတ်ထံ ပျံလွန်တော်မူသွားခဲ့ပေပြီ။

ရွှေဥဒေါင်းတောင်တောရ ဆရာတော်ဘုရားကြီးသည် ပရိယတ်ပဋိပတ် နှစ်ရပ်သော သာသနာတော်ကြီးကို ထာဝရအားပေးချီးမြှောက်တော်မူသည့် သာသနာတော်တွင် ဂုဏ်အင်ကြီးမားသည့် ဆရာတော်ကြီးတစ်ပါးဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

(ကျမ်းကိုး၊ အရှင်ဝိလာသာဘိဝံသ၊ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့ဝင်၊ သာသနာဝိပုလ၊ ရွှေဂူစာပေတိုက်၊ ညောင်ရွှေမြို့၊ ၁၃၄၂ ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၇ ရက်၊ ၁၉-၁၀-၁၉၈၀၊ စနေနေ့။)
(ကျမ်းကိုး၊ ဒါရိုက်တာ မြင့်မောင်၊ အင်းလေး ရွှေဥဒေါင်းတောင် ဆရာတော်ကြီး၊ ၁၉၈၅ ခု၊ ဇန်နဝါရီလ၊ ဒုတိယအကြိမ်၊ ဆရာဦးမြင့်မောင်သည် ထိုစာအုပ်ကို ၅-၁၂-၈၀ ပြည့်နှစ်ကတည်းကပင် ရေးသားပူဇော်ကြောင်းသိရပါသည်။ အကျယ်သိလိုသူများသည် ဆရာဦးမြင့်မောင်၏ စာအုပ်ကို ကြည့်ကြပါ။)

နံရံတွင် ပုံတော်များပေါ်နေသဖြင့် ရဟန္တာဟု ကျော်ကြားတော်မူသော

# ညောင်လန်းကုန်း ပတ္တမြားစေတီဆရာတော် အရှင်နေမိန္ဒ မထေရ်

# ညောင်လန်းကုန်း ဆရာတော်ဘုရားကြီး

**အေဒီ ၁၈၇၃ - ၁၉၃၈ ( ၁၂၃၅ - ၁၃၀၀ )**



တော်ဝင်မြိုး စာပေတိုက်



ဟံသာဝတီခရိုင် သုံးခွမြို့အပိုင် ညောင်လန်းကုန်းရွာတွင် လွန်ခဲ့သော နှစ်ပေါင်း ၄၀ လောက်က ထူးဆန်းသောအဖြစ်အပျက်များ ဖြစ်ခဲ့ဖူးလေသည်။ တအံ့တဩ သတင်းထူးများဖြစ်သဖြင့် လူ ပရိသတ် ဘုရားဖူးတို့ အလွန်စည်ကားခဲ့ဖူးပေသည်။

## နံရံပေါ်တွင် ဒေါင်းရုပ်များပေါ်နေခြင်း အံ့ဖွယ်

အကြောင်းအရင်းမှာ ညောင်လန်းကုန်းရွာရှိ ပတ္တမြားစေတီတော်ကြီး၌ ဓာတ်တော် မွေတော်များ ကွန့်မြူးသည်ဟူသောသတင်းမှာ ပြန့်နှံ့သွားခဲ့ပေသည်။

ထိုမျှသာမကသေး၊ ဘုရားကြီးအား မည်သူက ရွှေချသွားသည်မသိ၊ ရွှေများ တပြောင်ပြောင်တလျှပ်လျှပ် နေ့ချင်းညချင်း အရောင်ထိန်လင်းနေသည်ဟူသော သတင်းထူးမှာလည်း အလွန်ထူးနေပေသည်။

ငင်းအပြင် သတ္တဌာန ရုပ်ပွားတော်များလည်း လျှပ်တစ်ပြက် ရွှေချသွားခဲ့ သည် ဟူသော သတင်းများကလည်း ထပ်ဆင့်၍လာနေသေးသည်။

ထိုမျှသာမကသေး ညောင်လန်းကုန်းဆရာတော်ဘုရားကြီးကိုယ်တိုင် ကြိုက် နှစ်သက်၍ တံဆိပ်ခတ်နှိပ်ထားသည့် ဒေါင်းရုပ်များမှာလည်း နံရံအင်္ဂတေများ ပေါ်တွင် ထင်းထင်းကြီးပေါ်နေသည်ဟူသော သတင်းကလည်း ပြန့်နှံ့လျက်ရှိလေ သည်။

(ကျမ်းကိုး၊ သူရိယသတင်းစာ အယ်ဒီတာ ချစ်ဆွေ၊ ဟံသာဝတီခရိုင်၊ သုံးခွမြို့အပိုင် ညောင်လန်းကုန်းရွာ၊ ပတ္တမြားစေတီတော်သမိုင်းနှင့် ညောင်လန်းကုန်းဆရာတော် ဘုရားကြီး၏ ထေရုပ္ပတ္တိကထာ ဘီ၊ အိုး၊ တီ ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ စာ၊ ၅)

## သူရိယ အယ်ဒီတာ ဦးချစ်ဆွေ၏ ကြိုးစားမှု

ထိုကြောင့်ပင်လျှင် ဆရာတော်ဘုရားကြီး၏တပည့် သူရိယသတင်းစာ အယ်ဒီတာ ဦးချစ်ဆွေ ဆိုသူသည် ညောင်လန်းကုန်းရွာဇာတိဖြစ်သည့်အားလျော်စွာ မိမိကိုးကွယ်သော ဆရာတော်ကြီး၏ ထေရုပ္ပတ္တိကို မိမိတို့ကိုယ်တိုင်ပင်လျှင် အသေအချာမသိသဖြင့် ကမန်းကတန်း လိုက်လံ စုဆောင်းခဲ့ရပေ သည်။ ဤသို့ဖြင့် ညောင်လန်းကုန်းဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကထာ ပေါ်ထွက်လာခဲ့ရ ပေသည်။

## ပထမကျော် ဦးကြီးဖေ၏ ကြည်ညိုမှု

ညောင်လန်းကုန်းဆရာတော်ဘုရားကြီးနှင့် စပ်လျဉ်း၍ ပထမကျော် မဟာပညာဗလဘွဲ့ရ သာသနာ ညွှန်ကြားဝန် ဦးကြီးဖေကလည်း အလွန်စိတ်ဝင်စားသဖြင့် သူရိယသတင်းစာ အယ်ဒီတာ ဦးချစ်ဆွေသည် ဆရာတော်ဘုရားကြီး၏ မဟာရုပ်ပုံလွှာကို မရမက ရှာဖွေခဲ့ရသည်ဟု ဆိုပါသည်။ ညောင်လန်းကုန်းဆရာတော်ဘုရားကြီး ရေးသားတော်မူသော ဝဇီရာဝုဓကျမ်းသည် သာသနာတော် အတွက် အလွန်အဖိုးတန်သော ကျမ်းတစ်ကျမ်းဖြစ်ကြောင်း ပထမကျော် ဦးကြီးဖေကိုယ်တိုင်က တသသ ပြောဆိုနေခဲ့သဖြင့် ညောင်လန်းကုန်းရွာ ဇာတိဖြစ်သော ဦးချစ်ဆွေသည် များးစွာဂုဏ်ယူမိခဲ့သည်ဟု ဆိုခဲ့ပါသည်။

ဦးချစ်ဆွေနှင့် ဦးကြီးဖေတို့ တွေ့ဆုံခဲ့သည်မှာ ၁၃၁၄ ခုနှစ် နတ်တော်လဆန်း ၁၄ ရက်နေ့



ဖြစ်ပေသည်။ ညောင်လန်းကုန်းရွာတွင် ဖြစ်ရပ်ဆန်းများ ဖြစ်ပွားခဲ့သောနှစ်မှာ ၁၃၂၉ ခုနှစ်၊ ဖြစ်ခဲ့လေသည်။ သူရိယသတင်းစာအယ်ဒီတာ ဦးချစ်ဆွေ၏ ကောင်းမှုကြောင့် ညောင်လန်းကုန်း ပတ္တမြားစေတီဆရာတော် အရှင်နေမိန္ဒမထေရ်၏ ထေရုပ္ပတ္တိကထာကို သိခွင့်ရခဲ့ပါသည်။

သူရိယသတင်းစာအယ်ဒီတာ ဦးချစ်ဆွေ၏ ကုသိုလ်ကောင်းမှုကို ဂုဏ်ယူမှတ်တမ်းတင်လိုသဖြင့် အယ်ဒီတာဦးချစ်ဆွေ၏စာကို ထပ်ဆင့်ဖော်ပြပါမည်။ ဝမ်းမြောက်ဝမ်းသာ ထပ်ဆင့် ဖတ်ရှုကြပါလော့။

(ကျမ်းကိုး၊ ညောင်လန်းကုန်းဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကို စူးစမ်းရှာဖွေရန်အတွက် ဆရာတော်ဘုရားကြီး၏ တပည့်ကြီးများဖြစ်ကြသော ရဟန်းပုဂ္ဂိုလ်၊ လူပုဂ္ဂိုလ်အသီးသီးတို့ထံသို့ ချဉ်းကပ်၍ မေးမြန်းလေရာ တစ်လုံးစနှစ်လုံးစသာ သိရှိရပြီး စာရေးသူလိုချင်သည့် အရေးကြီးသော အချက်အလက်များကို မသိရှိရသည့်အတွက် ဝေးရပ်မြေရှိ ပုဂ္ဂိုလ်အသီးသီးတို့ကို စာဖြင့်လှမ်း၍ မေးမြန်းပြန်ရာ လိုချင်တာများမှာ မရရှိပြန်သောကြောင့် ဆရာတော်ဘုရားကြီး၏ မွေးရပ်ဖြစ်သော ပခုက္ကူခရိုင်၊ ရေစကြိုမြို့နယ် အပိုင် ခံစပ်တောရွာသို့ လူလွှတ်၍ စုံစမ်းခိုင်းလိုက်ရာမှ ရရှိလာသည့် အချက်အလက်များကို အခြေခံကာ စာရေးသူကိုယ်တိုင် စပ်စုထားသော အချက်အလက်များနှင့် ကိုယ်တိုင်သိရှိထားချက်များကို စုပေါင်း၍ ညောင်လန်းကုန်း ဆရာတော်ကြီး၏ ထေရုပ္ပတ္တိကထာတို့ ဖော်ပြလိုက်ရပါကြောင်း သတင်းထောက်ချစ်ဆွေက စာတွေ့ငါတွေ့ ဖော်ပြထားသည်ကို ထပ်ဆင့်ကိုးကားထားသဖြင့် ခိုင်လုံသော အချက်အလက်များ ဖြစ်သည်ဟု ကောင်းစွာယုံကြည်ရပါသည်။ )

## ဇာတိရပ်ရွာ မိဘတို့ကို ခြေရာကောက်ခြင်း

၁၈၇၃ ညောင်လန်းကုန်းဆရာတော်ဘုရားကြီးဖြစ်လာမည့် အလောင်းအလျာသည် အေဒီ ၁၈၇၃၊ ဇွန်လ ၂၈ ရက်၊ (ကောဇာသက္ကရာဇ် ၁၂၃၅ ခုနှစ် ဝါဆိုလဆန်း ၄ ရက်) စနေနေ့နံနက် ၉ နာရီအချိန်တွင် ဖွားမြင်တော်မူပါသည်။ ပခုက္ကူခရိုင်၊ ရေစကြိုမြို့နယ် အပိုင် ခံစပ်တောရွာတွင် ဦးရန်ကျော်နှင့် ဒေါ်မိန်းကလေးတို့မှာ တတိယမြောက် မွေးဖွားသည့် သားရတနာကလေးဖြစ်လေသည်။

ထိုဦးရန်ကျော်နှင့် ဒေါ်မိန်းကလေးတို့ ဇနီးမောင်နှံတွင် သားသမီး ၇ ယောက် ထွန်းကားလေရာ ကြီးစဉ်ငယ်လိုက် ရေတွက်သည်ရှိသော် မောင်ထွန်းမောင်၊ မကာ၊ မောင်ထွန်းဝါ၊ မစာ၊ မောင်သာပျော၊ မညာနှင့်မကြာတို့ ဖြစ်ကြလေသည်။ ထိုညီအစ်ကိုမောင်နှမ ၇ ယောက်တို့အနက် တတိယမြောက်သား ဖြစ်သည့် ကလေးငယ်ကို စနေသားကလေးဖြစ်ခြင်းကြောင့် မောင်ထွန်းဝါဟု အမည်ပေးလိုက်ကြလေသည်။

၉ နှစ်သားအရွယ်တွင် ရှင်သာမဏေ ပြုပေးလေရာ စနေသားဖြစ်ခြင်းကြောင့် ရှင်နေမိန္ဒဟု ဘွဲ့မည်ပေးလိုက်လေသည်။ ရှင်မဖြစ်မီကပင် ဆယ်စောင်တွဲ စာအုပ်တစ်အုပ်လုံးနှင့် လိင်ဒဏ်သေခိယမှ အစ ခန္ဓကဝတ် ၁၄ ပါးတို့ကိုပါ တတ်ကျွမ်းနေပြီဖြစ်လေသောကြောင့် ရှင်သာမဏေ ဖြစ်လာသည့်အခါတွင် နေ့ဝါညဝါများကိုပါ ဆက်လက်၍ ကြိုးစားအားထုတ်လိုက်လေရာ ရဟန်းဘဝသို့မရောက်မီ သဒ္ဒါကြီးရှစ်စောင် ရူပသိဒ္ဓိ၊ သဂြိုဟ်၊ ဋီကာကျော်တို့မှအစ ဝိနည်းငယ် လေးစောင်နှင့်တကွ ကခ်ီအဌကထာကိုပါ သင်ယူပြီးသားဖြစ်သွားလေသည်။



ရှင်နေမိန္ဒသည် ရှင်သာမဏေ ဘဝကပင် ဝိနည်းတော်ကို အလွန်လေးစားရှိပြီး စာပေသင်ယူရာတွင် ဝိနည်း ပိဋကတ်ကိုသာ အလွန်စိတ်ပါဝင်စားစွာဖြင့် သင်ယူလေ့ရှိကာ နှိုက်နှိုက်ချွတ်ချွတ် ကြံစည်စိတ်ကူးတတ်လေသည်။

မိမိ၏ မွေးရပ်မြေ ကျောင်းမှာပင် တောင်ဦးကျေးရွာမှ တောင်သူကြီးဦးပေါ်သစ် ဒေါ်ခင်သစ်တို့က ရဟန်းဒါယကာပြုလုပ်၍ ရဟန်းဘဝသို့ ရောက်ရလေရာ ဘွဲ့အမည်မှာလည်း ရှင်ဘွဲ့တော်အတိုင်း ဦးနေမိန္ဒဟုပင် ဆက်လက်၍ ဘွဲ့ပေးလိုက်လေသည်။

ရဟန်းတစ်ဝါဆိုပြီးသည်အထိ မိမိ၏နေရင်းဇာတိ ရဟန်းဖြစ်လေရာ ကျောင်းမှာပင်နေထိုင်ပြီးမှ နောက်နှစ်တွင် တောင်ဦး၊ မြေမလှ၊ ခံစပ်တောကျေးရွာ ၃ ရွာ၏ အလယ်ဗဟိုတွင် တောရကျောင်းတစ်ကျောင်း ဆောက်လုပ်စေပြီး ထိုတောရကျောင်းတွင် အဖော်မမှီး တစ်ကိုယ်တော်တည်း ဧကစာရီကျင့်တော်မူရင်း တစ်ဝါဆိုတော်မူလေသည်။

## ရေစကြို ဂူဖြူဆရာတော်ကြီး၏ တပည့်

ဝိနည်းတရားတော်ကို လေးစားတော်မူရာတွင် အလွန်ပင် ထင်ပေါ်ကျော်ကြားလှသည့် ရေစကြိုမြို့အနီးရှိ ဂူဖြူတောရကျောင်းတိုက်ကြီးတွင် သီတင်းသုံးနေတော်မူသော မင်းတုန်းမင်းတြားကြီး၏ လက်ထက်တွင် စာချွန်တော်ရ လင်္ကာပေသလ သိက္ခာကာမ ဝိနယကုက္ကုစ္စ ဖြစ်တော်မူသော ကခ်ီ အဋ္ဌကထာ တစ်ကျမ်းလုံးကို နှုတ်လွတ်ပို့ချတော်မူနိုင်သော ဂူဖြူဆရာတော် ဦးမေဓာ၏ ထံမှောက်သို့ ကြွလာကာ ဝိနည်းပိဋကတ် အဖြာဖြာတို့ကို နေ့ ည မအား သင်ကြားတော်မူလေသည်။

## ရွှေကျင်ဂိုဏ်းဝင်

ထိုဂူဖြူတောရကျောင်းသို့ ရောက်သည့်အချိန်မှစ၍ သုဓမ္မာဂိုဏ်းဝင် ထေရ်အရှင်အဖြစ်မှ ရွှေကျင်နိကာယဂိုဏ်းဝင် ထေရ်အရှင်အဖြစ်သို့ရောက်ရှိ၍လာတော်မူရာ ပျံလွန်တော်မူသည့် အချိန်အထိပင် ဖြစ်လေသည်။

ဂူဖြူတောရ ဆရာတော်ဘုရားကြီးသည် ဝိနည်း ပိဋကတ်တော်တို့ကို ပို့ချရာတွင် စာပေပုရပိုက်တို့ကို ကိုင်တွယ်လေ့မရှိဘဲ အလွတ်သာ ပို့ချတော်မူလေ့ရှိခြင်း၊ နှုတ်အာဂုံဆောင်တော်မူလေ့ရှိခြင်း၊ ဝိနည်းအဆုံးအဖြတ် ရဲရဲဝံ့ဝံ့ မတွန့်မတိုပြောဆို ဆုံးဖြတ်တော်မူလေ့ရှိခြင်း၊ တစ်ထပ်တည်းသောဆွမ်းကိုသာ ဘုဉ်းပေးတော်မူလေ့ရှိခြင်း၊ အမြဲမပြတ် နိစ္စပါတ်ဆွမ်းကို ခံယူတော်မူလေ့ရှိခြင်း၊ ခေါင်းခေါင်းပါးပါး ဘုဉ်းပေးတော်မူလေ့ရှိခြင်း၊ မအိမသာ မကျန်းမာ၍ နေစေကာမူ တစ်နေ့လျှင် သုံးကြိမ်တိတိ၊ ဘုရားကိုပူဇော်ဝတ်ပြုလေ့ရှိခြင်း၊ တောရကျောင်းတွင်သာ သီတင်းသုံးနေတော်မူလေ့ရှိခြင်း စသောအင်္ဂါရပ်တို့ကြောင့် အထက်အောက်တစ်ခွင် ထင်ပေါ်ကျော်ကြားသော ဆရာတော်ကြီးတစ်ပါးဖြစ်လေသည်။

ထိုကဲ့သို့ ကျော်ကြားတော်မူသော ဂူဖြူတောရ ဆရာတော်ဘုရားကြီး၏ အထံတွင် စာပေပိဋကတ်တို့ကို သင်ယူပြီးနောက် ပခုက္ကူမြို့ ကျောက်မိချောင်းကျောင်း ဆရာတော်ထံတွင် ပိဋကတ်တော်များကို ဆက်လက်၍ သင်ယူပြန်လေသည်။

## ရန်ကုန် ဗဟန်း ရွှေကျင်တိုက်သို့ရောက်ရှိခြင်း အမှတ်တရ

ထို့နောက်တွင်မှ အောက်ပြည်အောက်ရွာသို့ အညာဆန်သင်္ဘောကြီးဖြင့် စုန်ဆင်းလာပြီး ပြည်မြို့အရောက်တွင် ပြည်မြို့ရှိ တောရကျောင်း၌ တစ်ဝါဆိုတော်မူကာ ပရိယတ်ရော ပဋိပတ်ပါ သင်ယူလေ့လာတော်မူပြီးမှ ရန်ကုန်မြို့သို့ စုန်ဆင်းလာကာ ဗဟန်းရပ်ရှိ ကျောင်းတော်ရာ ရွှေကျင်တိုက်ကြီးတွင် နှစ်ဝါတိတိ ကြာရှိ၍ သွားလေသည်။

## ကျိုက်လတ်မြို့ ရွှေကျင်သာသနာပိုင်ထံ စာသင်ကြားခဲ့ခြင်း



ရွှေကျင်သာသနာပိုင်ကြီး သီတင်းသုံးရာ ကျိုက်လတ်မြို့ရှိ ပစ္ဆိမာရုံကျောင်းတိုက်ကြီးသို့ ကြွတော်မူ၍ ရွှေကျင်သာသနာပိုင်ကြီး၏ ထံမှောက်တွင် ဝိနည်းပိဋကတ်တော်တို့ကို အဆုံးအဖြတ်အမျိုးမျိုး အကိုးအကားအစုံစုံ အယူအဆ အဖုံဖုံတို့အား တိတိကျကျ မိမိရရဖြစ်အောင် သင်ယူတော်မူပြန်လေရာ နှစ်ဝါတိတိပင် ကြာရှိခဲ့ပြန်လေသည်။

ကျိုက်လတ်မြို့ရှိ ပစ္ဆိမာရုံကျောင်းတိုက်ကြီးတွင် ရွှေကျင်သာသနာပိုင်ကြီး၏ ထံတော်မှောက်၌ နည်းနာနိဿယတို့ကို ခံယူတော်မူနေစဉ်မှာပင် ဟံသာဝတီခရိုင် သုံးခွမြို့အပိုင် ဥက္ကံရွာတွင်ရှိသော ဘုရား ကြီးကျောင်းတိုက်မှ ဆရာတော်ဘုရားကြီးက ဂနဝါစက စာချဘုန်းတော်ကြီးအဖြစ် အလိုရှိသည်က တစ်ကြောင်း၊ ဝိနည်းသိက္ခာပုဒ်တော်တွင် ရိုသေလေးစားစွာဖြင့် လိုက်နာကျင့်သုံးတော်မူသည်ဟု ကြားသိ တော်မူရသည်ကတစ်ကြောင်းတို့ကြောင့် ပင့်ဖိတ်ခေါ်ယူတော်မူသဖြင့် ဘုရားကြီးဆရာတော်အား မလွန် ဆန်ဝံ့သည့်အတွက် ဥက္ကံရွာရှိ ဘုရားကြီးကျောင်းတိုက်သို့ ရောက်ရှိတော်မူရလေသည်။

ထိုဘုရားကြီးကျောင်းတိုက်တွင် တပည့်သံဃာတော် အများတို့အား စာပေပို့ချလေရာ ၄ ဝါ တိတိကြာရှိ၍ သွားတော်မူလေသည်။ ဦးနေမိန္ဒအရှင်သည် ဆရာတော်ဘဝသို့မရောက်မီ တစ်ဆယ့် ခြောက်ဝါတိတိ မြို့ရွာအသီးသီး ကျောင်းတိုက်အသီးသီးတို့တွင် လှည့်လည်ကာ သီတင်းသုံးတော်မူပြီး စာပေသင်ကြားခြင်းနှင့် စာပေပို့ချခြင်းအမှုတို့ကို ပြုတော်မူနေစဉ်မှာပင် ဘုရားကြီးဆရာတော်၏ အမိန့်တော်အရ ဘုန်းကြီးဦးနေမိန္ဒမှာ ညောင်လန်းကုန်းရွာကြီးသို့ ကြွတော်မူခဲ့ရရှာလေသည်။

(ကျမ်းကိုး၊ စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာတောရဆရာတော် အရှင်ပဏ္ဍိတထေရ် ဒုတိယ အကြိမ် စီစဉ်ရေးသားအပ်သော ရွှေကျင်နိကာယ သာသနာဝင် ၁၉၈၈ ခု)

## ညောင်လန်းကုန်း ဆရာတော် ဟူ၍ ဘွဲ့အသစ်ရတော်မူခြင်း

စာချဘုန်းတော်ကြီး ဦးနေမိန္ဒသည် ညောင်လန်းကုန်းရွာသို့ ရောက်ရှိတော်မူသည်ဟုဆိုလျှင်ပင် စာချဘုန်းတော်ကြီးဟူသော အမည်ပျောက်ပြီး ညောင်လန်းကုန်းဆရာတော်ဟူသော အမည်တော်တွင်ပြီး ရွာနီးချုပ်စပ်မှစ၍ တစ်နေ့ထက်တစ်နေ့ ထင်ပေါ်ကျော်ကြား၍လာလေသည်။

ညောင်လန်းကုန်းဆရာတော်ဘုရားကြီးသည် သာသနာတော်အတွက်ဆိုလျှင် အသက်ပင် သေသေဆိုသော လုံ့လဝီရိယတော်ဖြင့် ရဟန်းဝါမရမီကတစ်ကြိမ် ရဟန်းဝါ နှစ်ဝါအရတွင် တစ်ကြိမ်နှင့် နှစ်ဆယ့်လေးဝါအရတွင် တစ်ကြိမ် ပေါင်းသုံးကြိမ်တိတိ အသက်နှင့် ခန္ဓာကိုယ်ပါ ဘုရားရှင်ထံတွင် ရေစက်သွန်းချ၍ လှူဒါန်းထားကြောင်းကို တွေ့ရှိရလေသည်။ ထိုသို့ လှူဒါန်းထားပြီးသားဖြစ်သည့်အတွက် ကိုယ်တော်တိုင် ရေးသားထားသော ဝဇီရာဝုဓကျမ်းကို ပထမအကြိမ်အဖြစ် စာအုပ်ရေ ၄၃၁၀ တိတိ ရိုက်နှိပ်၍ မြန်မာပြည်အနှံ့အပြားသို့ လှူဒါန်းဝေငှလိုက်လေသည်။

## ဝဇီရာဝုဓကျမ်းကြီးကို ပြုစုခဲ့ခြင်း

၁၉၀၉ ထိုကဲ့သို့ ဝဇီရာဝုဓကျမ်းကြီးကို အေဒီ ၁၉၀၉ ခု (၁၂၇၁ ခုနှစ်)တွင် ရိုက်နှိပ်၍ လှူဒါန်းဝေငှခဲ့ကြောင်း သိရပါသည်။

၁၉၂၀ အားရတင်းတိမ်ခြင်း ရှိတော်မမူသေးဘဲ အေဒီ ၁၉၂၀ ခု (၁၂၈၂ ခုနှစ်) တွင် ကမ္ဘာပြု ပြဟ္မာ့ဝိဟာရအသင်းကြီးကို ဖွဲ့စည်းတည်ထောင်ကာ ထိုအသင်းကြီးတွင် အုပ်ချုပ်မှု အသင်းလူကြီးများခန့်ထားပုံ အသင်းသားများလိုက်နာရန် ကျင့်ဝတ် သီလ ၁၀ ပါးနှင့် နှုတ်ငုံဆောင်ရန် ကျင့်ဝတ် ၁၀ ပါး ဧကပိုဒ်နှင့် အသင်းသားတို့ ဆောင်ရွက်ရန် စည်းမျဉ်းဥပဒေ စသည်တို့အပြင် အထွေထွေသော အခန်းကဏ္ဍ



အသီးသီးတို့ကို ဖော်ပြရန်အတွက် ကမ္ဘာပြု ပြဟ္မဝိဟာရ အသင်းကြီး ဥပဒေ ဟူသော စာအုပ်ကို ရေးသားတော်မူကာ စာအုပ်ရိုက်နှိပ် အကြိမ်ပေါင်း ၇ ကြိမ် စာအုပ်ရေ ပေါင်း ၁၀၀၀၀ ကျော်မျှကို လှူဒါန်း ဝေငှတော်မူပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၁၅- ၁၁၆)

## ဘုန်းကြီးကျောင်းတွင် ထူးဆန်းသောဖြစ်ရပ် ဖြစ်ပွားခြင်း။ ယောကျ်ားဘဝမှ မိန်းမဘဝသို့လည်းကောင်း မိန်းမဘဝမှ ယောကျ်ားဘဝသို့လည်းကောင်း တစ်ဖန် ပြောင်းသော ဖြစ်ရပ်ဆန်း

၁၉၁၈ အေဒီ ၁၉၁၈ ခု (၁၂၈၀ ပြည့်နှစ် ဝါခေါင် တော်သလင်းလ) တို့၌ ဆရာဘုန်းကြီး ကျောင်းပေါ် ကျောင်းတွင်း၌ အသက် ၂၀ စေ့၍ ပဥ္စင်းအဖြစ်သို့ တက်မည့်ဆဲဆဲ ရဟန်းလောင်း ရှင်သာမဏေသည် ဘဝမခြားဘဲ တစ်ဘဝတည်း၌ ပုမ္ဘာဝ ကွယ် ပျောက်၍ ဣတ္ထိဘဝသို့ ရောက်သွားခြင်းသည် နိုင်ငံနှင့်တကွ ထင်ရှား၏။

ထိုဣတ္ထိဘဝသို့ရောက်သော်လည်း ရှစ်လ ကိုးလခန့်အတွင်း၌ပင် ပကတိမူလ ရင်း ပုမ္ဘာဝသို့ပြန်ရောက်၍ ယခု ခင်ပွန်းမနှင့်တကွ ထင်ရှားရှိ၏။

တစ်ဘဝတည်း၌ ဖြစ်နိုင်ခဲလှစွာသော ဘဝတစ်ခုမှ ဘဝတစ်ခုသို့ ပြောင်းလွဲ ၍ပြခြင်းကို သိဆဲခဏ၌ပင် ဘုန်းကြီး၏ စိတ်သဘောအထင်အရမှာ ထိုသူ၏အမှု ဟုတ်သည်ဖြစ်စေ မဟုတ်သည်ဖြစ်စေ ပုဗ္ဗနိမိတ်ထူးတစ်ခုဟု မှတ်လိုက်သည်မှာ ဤသို့တည်း။ သတ္တလောကကမ္ဘာကြီးသည် တစ်ဘဝတည်း၌ ဓာတ်သဘော တစ်ခုမှ တစ်ခု ပြောင်းလဲဖို့အကြောင်း ပုဗ္ဗနိမိတ်ကြီးတစ်ခု ဖြစ်ပေါ်သည်ဟု စွဲယူမှတ်ထား လိုက်သည်မှာအမှန်တည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၂)

ညောင်လန်းကုန်းဆရာတော်ဘုရားသည် တောထွက်တော်မူလိုပြန်သဖြင့် စစ်ကိုင်းတောင်သို့ ကြွတော်မူကာ ဣစ္ဆာသယချောင်တွင် တစ်ဝါပတ်လုံး သီတင်းသုံးတော်မူသည်။ ထိုနောက် ညောင်လန်း ကုန်းရွာသို့ ပြန်ကြွတော်မူရာက ထိုရွာမှာပင် ဝါကပ်တော်မူရပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၇ )

## နေမင်းဆရာတော် လမင်းဆရာတော် နေ လ နှစ်ပါး

၁၉၂၀ အေဒီ ၁၉၂၀ ခု (၁၂၈၂ ခုနှစ်) ညောင်လန်းကုန်းရွာ ပတ္တမြားစေတီတိုက်ကြီးတွင် တစ်ဝါ ဆိုတော်မူပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၇ )

နောက်နှစ်တွင်မှ ကျွန်းတောင် ဆရာတော်ဘုရားကြီးလည်း ကြွတော်မူသဖြင့် ထိုကျွန်းတောင် ဆရာတော်ကြီးနှင့်လိုက်သွားကာ ထိုကျွန်းတောင်မှာပင် တရားဘာဝနာပွားများတော်မူရင်း တစ်ဝါကပ် တော်မူလေသည်။ တစ်တောထွက်၍ တရားအားထုတ်ရန် အကြံတော်ဖြစ်လာပြန်သဖြင့် သထုံခရိုင် ကျိုက်ထိုမြို့အပိုင်တွင် တည်ရှိသော ရက်ကန်းသည်မတောင်သို့ ကြွသွားတော်မူကာ ထိုတောင်တွင် တစ်ဝါဆိုတော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၈ )



ရက်ကန်းသည်မတောင်နှင့် ယှဉ်လျက်ရှိသော တောင်ကိုဝေပုလ္လတောင်ဟု ခေါ်သည်။ ထိုဝေပုလ္လတောင်တွင် ဦးကောသလ္လ ဆရာတော်ဘုရားကြီး သီတင်းသုံးတော်မူကာ တရားဘာဝနာများကို ပွားများတော်မူလေသည်။ ညောင်လန်းကုန်း ဆရာတော်ဘုရားကြီး၏ဘွဲ့တော်မှာ ဦးနေမိန္ဒဖြစ်၍ စနေသား၏ အထိမ်းအမှတ်အဖြစ်ဖြင့် နေမင်းအမှတ်ပြုကာ ဘုန်းဘုရားကြီးဦးကောသလ္လဆရာတော်မှာ တနင်္လာသားဖြစ်တော်မူ၍ လမင်းအမှတ်ပြုလျက် ထိုဆရာတော်ကြီးနှစ်ပါးကို နေလနှစ်ပါးဟု အသိအမှတ်ပြု၍ ထားကာ ကိုးကွယ်ဆည်းကပ်ကြလေသည်။

ညောင်လန်းကုန်း ဆရာတော်ဘုရားကြီးသည် ၁၂၈၆ ခုနှစ်တွင် ပတ္တမြားစေတီ ကျောင်းတိုက်ကြီးသို့ ပြန်၍ ကြွလာတော်မူပြီးနောက် တစ်ဝါဆိုတော်မူပြီးမှ ဝေါမြို့အပိုင် လောကဓာတ်ကွင်းတွင် နေထိုင်သော သူဌေးကြီးဦးမိုးနှင့် ဒေါ်မယ်ဆင်တို့၏ ပင့်လျှောက်ချက်အရ တစ်ဝါသွား၍ ချီးမြှောက်တော်မူရပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၈၊ ၁၂၉)

## ပတ္တမြားစေတီတော်ကြီးကို ကျောက်သားဖြင့် တည်တော်မူခြင်း

၁၉၂၇ အေဒီ ၁၉၂၇ ခု၊ (၁၂၈၈ ခုနှစ်) တွင် သတ္တဋ္ဌာန ခုနစ်ခန်းနှင့် ဓာတ်တော်တိုက်ကြီးပါ တည်ဆောက်၍ ပြီးစီးတော်မူလေသည်။ ဆရာတော်ဘုရားကြီးသည် မိမိကိုယ်တော်တိုင် ပြုပြင်ဖန်တီးထားတော်မူသော ပတ္တမြားစေတီတော်ကြီး ဓာတ်တော်တိုက်ကြီး၊ သတ္တဋ္ဌာနနှင့် ဇောဓိပင်တို့ကို နေ့စဉ်နှင့်အမျှ တံမြက်လှည်းခြင်း၊ ဘေးရန်အသီးသီးတို့မှ စောင့်ရှောက်ခြင်း စသော ဗုဒ္ဓဝေယျာဝစ္စတို့ကို ပြုလုပ်ရုံမျှမက၊ မိမိ၏ ပြုဖွယ်ကိစ္စဖြစ်သော တရားဘာဝနာတို့ကို ပြုလုပ်လေ့ရှိကြောင်း သိရသည်။

## ၂၄ နာရီကို အသုံးပြုပုံပြုနည်း

တစ်နေ့လျှင် ၂၄ နာရီရှိသည့်အနက် တစ်နာရီမျှလောက်ပင် ကိန်းစက်တော်မူခြင်း ရှိတော်မမူဘဲ၊ ညဉ့်နက်သန်းခေါင်မှစ၍ နံနက်မိုးသောက် လင်းရောင်ခြည်ရောက် အချိန်အထိ ကိစ္စအဝဝတို့ကို ပြုတော်မူပြီးမှ နံက်ပိုင်းတွင် အချိုအချဉ် ပွဲများလောက်ကိုသာ ဘုဉ်းပေးတော်မူလေသည်။

## ဆွမ်းကိစ္စ

ဆွမ်းကိုမူ နေ့ဆွမ်း တစ်ထပ်တည်းကိုသာ ဘုဉ်းပေးတော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၃)

## သက်သတ်လွတ်ဆွမ်း/ ဆွမ်းချည်းသက်သက်/ ဟင်းရွက်စိမ်းသက်သက်ဘုဉ်းပေးခြင်း

ဆွမ်းဘုဉ်းပေးတော်မူချိန်တွင်မူ အသက်သတ်လွတ်ဆွမ်းကိုသာ ဘုဉ်းပေးတော်မူလေရာ တစ်ခါတစ်ရံတွင် ဆွမ်းချည်းကိုသာ ဘုဉ်းပေးတော်မူပြီး တစ်ခါတစ်ရံတွင်လည်း ဟင်းရွက်စိမ်းသက်သက်နှင့် တစ်ခါတစ်ရံတွင် အသီးအနှံသက်သက်ကိုသာ ဘုဉ်းပေးတော်မူလေ့ရှိလေသည်။ ထိုသို့ ဟင်းရွက်စိမ်းများကိုသာ ဘုဉ်းပေးတော်မူသည်ကိုမြင်ကြရသော တပည့်အပေါင်းတို့သည် စိတ်မကောင်းကြခြင်းဖြင့် စုတ်တသတ်သတ်နှင့် ဖြစ်ကြရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၃)



ဆရာတော်ဘုရားကြီးမှာမူ ကျန်းကျန်းမာမာ ရှိတော်မူပြီး ကျိန်းစက်တော်မူရာတွင်လည်း ညဦးယံတွင် ဘုရားပုထိုးရှိခိုးပြီး၍ တပည့်အပေါင်းတို့အား အနင်းအနှိပ်ခံတော်မူရင်း၊ ဆုံးမစကားပြော ကြားနေရာမှ တစ်ခဏမျှလောက်သာ အိပ်ပျော်သွားလေ့ရှိပြီး နှိပ်နယ်ဝတ်ဖြည့်၍ ပေးနေစဉ်မှာပင် ပြန်လည်၍နိုးလာကာ ထိုညအဖို့ ကျိန်းစက်ခြင်းကိစ္စ ပြီးဆုံးခြင်းသို့ရောက်လေ့ရှိတော်မူလေသည်။ ကျန်အချိန်များတွင်မူ ဗုဒ္ဓဝေယျာဝစ္စနှင့် တရားဘာဝနာပွားများခြင်းဖြင့် တစ်ညဉ့်ပတ်လုံးအချိန်တွေ ကုန်ဆုံးလေ့ရှိတော်မူလေသည်။

ထိုသို့ ကျိန်းစက်တော်မူရာတွင် ပြင်ဆင်ထားသည့် အိပ်ရာမှာ ခုတင်ကြီးများပေါ်မှာလား၊ ကွပ်ပျစ်များပေါ်မှာလား၊ ဝိဝေက တိုက်သစ်ကြီးပေါ်မှာလား၊ သိမ်တိုက်ကလေး အတွင်းမှာလား၊ ကော်ဇောကြီးများ ခင်းထားသေးသလား၊ မဟုတ်ပါ။

## သမံတလင်းပေါ်မှာ ကျိန်းစက်

**သိမ်တိုက်နှင့် ဝိဝေကတိုက်သစ်ကြီးအကြားရှိ သမံသလင်းပေါ်တွင် သားရေနယ်ကို ခင်းကာ ကျိန်းစက်ခြင်းမျှသာဖြစ်ပါသည်။ အချိုအချဉ်ဘုဉ်းပေးလည်း ထိုနေရာ၊ ဆွမ်းဘုဉ်းပေး လည်း ထိုနေရာ၊ လူအများအား ပူဇော်အကန်တော့ခံလည်း ထိုနေရာမှာပင်ဖြစ်လေရာ စားလည်း ထိုနေရာ၊ အိပ်လည်း ထိုနေရာမှာပင် ဖြစ်လေတော့သည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၄)

## ခြိုးခြံသည့် အကျင့်များ

ဆရာတော်ဘုရားကြီး ဆံပင်မှာ တစ်လတွင် တစ်ခါသာ ပယ်တော်မူလေ့ရှိလေရာ၊ ရေချိုးခြင်း ကိစ္စကိုလည်း ၇ ရက်မှ တစ်ကြိမ်လောက်သာ ချိုးလေ့ရှိလေသည်။

## စုတ်ပြဲသည့် သင်္ကန်းတော်

သင်္ကန်းတော်များမှာလည်း ရေချိုးသည့်အခါကျမှသာလျှင် လဲလှယ်လေ့ရှိတော်မူသောကြောင့် သင်္ကန်းများတွင် သန်းမကြီးများကပ်၍နေခြင်း၊ အချို့သောနေရာတို့တွင် ချုပ်ရိုးများပြုတ်နေခြင်း၊ အသားများ စုတ်ပြဲနေခြင်း။

## ကိုယ်တိုင် အုတ်ခဲထု

လက်နှင့်အလုပ်ကလည်းမပြတ်၊ ဘုရားဝင်းဓာတ်တော်တိုက်ဝင်း သတ္တဋ္ဌာန ဝင်းတို့၌ အုတ်ခဲ များကို ထုရိုက်နေခြင်းကြောင့် သင်္ကန်းတော်တွင် ဖုံအလိမ်းလိမ်းကပ်နေခြင်း၊

## ကိုယ်တိုင်လျှော်ဖွတ်

မိမိဝတ်သည့် သင်္ကန်းကို မိမိကိုယ်တိုင် ပိန္နဲရေဖြင့်ဆိုးခြင်း၊ သင်္ကန်းကို လျှော်ဖွတ်ရာတွင် လိတ်ထိုး၍ လျှော်ဖွတ်ခြင်း၊

## အုတ်ခဲထုသည့် လက်

လက်ဖဝါးတော်များမှာလည်း အုတ်ခဲများကို ထုရရိုက်ရသည့် ဒဏ်ချက်ကြောင့် ကွဲအက်နေခြင်းစ သော ရေ၍မကုန်နိုင်လောက်သော ခြိုးခြံသည့်အကျင့်ရှိသည့်ဆရာတော်ဘုရားကြီးဖြစ်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၄-၁၃၅ )



**ကောင်းကင်ခရီး ချာန်ယာဉ်စီး**

ထိုကဲ့သို့သော အကျင့်သိက္ခာတော်တို့ကြောင့် ရပ်ဝေးရပ်နီး အသီးသီးတို့တွင် ဆရာတော်ဘုရားကြီးသည် ကောင်းကင်ခရီးဖြင့် ချာန်ယာဉ်စီးကာ ကြွသွားတော်မူသည်ကို ဖူးလိုက်ကြရသည်ဟူ၍ လည်းကောင်း၊

**အဝေးခရီးလည်း နီး**

ဥက္ကံရွာသည် ညောင်လန်းကုန်းရွာမှ ၁၂ မိုင်မျှ ဝေးကွာလေရာ ထိုမျှလောက် ဝေးကွာသည့်အရပ်ကိုပင် နာရီဝက်အတွင်း ကြွလာတော်မူခြင်းဖြစ်သည် ဟူ၍လည်းကောင်း၊

**ကေလာသတောင်မှာ အရိပ်ပေါ်**

ကေလာသတောင်ထိပ်ရှိ နတ်ရေကန်တွင် ဆရာတော်ဘုရားကြီးနှင့်တကွ ပတ္တမြားစေတီတော်ကြီး၏ အရိပ်တော်များပေါ်နေကြောင်းဖြင့် ရသေ့တစ်ဦးလာ၍ လျှောက်ထားသည်ကို လည်းကောင်း၊

**ဟိမဝန္တာမကြွခင်**

ဟိမဝန္တာတောင်သေလာသို့ မကြာခဏ ခုပင်ကြွမည်။ ခုမှမလာမဖူးပါက နောင်ခါတွင်မှ ဖူးချင်သူလည်း ဘယ်နည်းနှင့်မျှမဖူးရ၍ များလှသောင်းသောင်း လူအပေါင်းတို့ ခညောင်းပူဇော် ဖူးမြော်လာကြသည် ဟူ၍လည်းကောင်း၊

**ညအခါ နတ် ပြိတ္တာတို့ကို တရားဟော**

သန်းခေါင်ကျော်ပြီး တစ်ချက်တီးမှအစပြုကာ ရောက်လာသမျှ ဒေဝဒေဝါ နတ်ပြိတ္တာတို့အား တရားရေအေး၊ အမြိုက်ဆေးကို ဟောကြားမိန့်မြွက် ဓမ္မစက်သံ၊ နာခံကြရသည်ဟူ၍ လည်းကောင်း၊ အမျိုးမျိုးသော တန်ခိုးတေဇော် အာနုဘော်တို့သည် မကြာမကြာ ဖြစ်ပေါ်၍ လာတတ်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၅-၁၃၆ )

**နှုတ်ခမ်းမွေးဆရာတော် / ကျောက်ဝိုင်းဆရာတော် / သာယာဝတီ ဦးဥေယျ**

ဆရာတော်ဘုရားကြီး၏ ဩဝါဒအရ နိုင်ငံကျော် ဓမ္မကထိကများ ဖြစ်တော်မူကြသော ဟိုချိန်ခါက အလွန်ပင် ထင်ပေါ်ကျော်ကြားလှတော်မူသည့် မြဝတီဆရာတော် နှုတ်ခမ်းမွေးဆရာတော်အမည်တွင်သည့် ညောင်ချောင်းဆရာတော်၊ မရမ်းချိုဆရာတော်၊ သာယာဝတီ ဦးဥေယျ၊ တောင်ငူ ဦးကုဏ္ဍလ၊ ကျောက်ဝိုင်း ဦးဣန္ဒက နှစ်ကျိပ်ရှစ်ဆူ ဦးညာဏိက၊ သခွပ်ကုန်း ဦးလက္ခဏ၊ ဦးသုဇာတစသော ဓမ္မကထိက အကျော်အမော်တို့အား တိုက်စံကျောင်း၊ ဓမ္မာရုံကြီးနှင့် နတ်လမ်းပါမကျန် စီမံကာဆောက်လုပ်လှူဒါန်းထားသည့် ဘုရားဒါယကာကြီး ဦးဖွင့်ဖြိုး၊ ဒေါ်စိုးတို့၏ ကိုယ်ပိုင်စီးသည့် မော်တော်ကားဖြင့် လှည်းလမ်းမကျောင်းတွင် ခဲခဲယဉ်းယဉ်းမောင်းကာ ပင့်ဆောင်လာပြီး တရားပွဲကြီးများ ကျင်းပစေလေရာ အခြားအခြားသော ရုပ်ပွဲတွေ အလွတ်ပွဲတွေပါသည့် ဘုရားပွဲကြီးများထက် အသွင်တစ်မျိုးထူးခြားပြီး လှည်းတပ်ကြီးများပင် ကြောက်ခမန်းလိလိရှိအောင် တရားနာပရိသတ်များ စည်ကားလှသည်ကို တွေ့ရှိရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၆-၁၃၇ )



နှုတ်ခမ်းမွေး ဆရာတော်မှာ အုဂ်ဖိုရ်ဆရာတော်ဘုရားနှင့် သီဟိုဠ်စွယ်တော်ဖူးရာ ပါသွားပြီးနောက် သီဟိုဠ် စာပေလေ့လာ၍ မြန်မာပြည်တွင် သာသနာပြုရာ ဘီးလင်းခရိုင်၊ ဇုတ်သုတ်ရွာ၊ ကေလာသ တောင်ထိပ်တွင် သောဏ္ဏာယ ကျောက်စာကြီးကို စိုက်ထူခဲ့သော ရဟန်းထူး ဖြစ်လေသည်။ လယ်တီဆရာတော်ဘုရားနှင့် တွေ့ဆုံခန်းကိုလည်း ထိုခေတ်က များစွာစိတ် ဝင်စားကြပါသည်။ ထိုဆရာတော်မှာ မော်ကျွန်းမြို့နယ် သံကြိုးရွာတွင် ခန္ဓာဝန် ချတော်မူသည်။

(ကျမ်းကိုး၊ ပိုမိုသိလိုလျှင် မောင်ပန်းမွေး၊ ကျိုက်ထီးဆောင်းဒီကာ ပေါင်းချုပ်ကြီးတွင် ကြည့်ပါ။)

## ဇမ္ဗူဒီပစေတီ တည်တော်မူခြင်း

၁၉၃၁ ဘုရားတည်ခြင်းကို အလွန်ပင် လိုလားနှစ်သက်တော်မူသော ဆရာတော်ဘုရားကြီး သည် အေဒီ ၁၉၃၁ ခု (၁၂၉၃ ခုနှစ်)တွင် ပတ္တမြားစေတီတော်ကြီး၏ အရှေ့မြောက် ယွန်းယွန်းအရပ်၌ ဇမ္ဗူဒီပစေတီဟူသောဘွဲ့တော်ဖြင့် ၉ နဝင်းစေတီတော်တစ်ဆူကို တည်ထားကိုးကွယ်တော်မူပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၇)

ညောင်လန်းကုန်းဆရာတော်ဘုရားကြီးသည်လည်း ရဟန်းဖြစ်စမှစ၍ ရပ်ရွာမြို့နယ် အသီးသီး တို့တွင် စာသင်သားအဖြစ်ဖြင့်လည်းကောင်း၊ စာချဘုန်းကြီးအဖြစ်ဖြင့်လည်းကောင်း၊ ကျောင်းထိုင် ဆရာတော်အဖြစ်ဖြင့်လည်းကောင်း၊ လှည့်လည်၍ ဝါကပ်တော်မူခဲ့ရုံမျှမက ဆရာတော်ဖြစ်ပြီးသည့် နောက်ကွယ်လည်း ဘုရားတည်ရသည့်ကိစ္စ တောထွက်တော်မူလိုက်သည့်ကိစ္စ၊ ဒါယကာတို့၏ ပင့်လျှောက် ချက်အရ ကြွရောက်ချီးမြင့်ရသည့်ကိစ္စ စသောအကြောင်းအမျိုးမျိုးတို့ကြောင့် ဝါ ၂၀ ကျော် ၃၀ အတွင်း ဒေသအသီးသီးတို့သို့ကြွရောက်၍ သီတင်းသုံးတော်မူပြီးမှ ၄၅ ဝါ မြောက်သည်အထိ ကြားကာလ တွင် ဥက္ကံ၌ တစ်ဝါသွား၍ ဆိုဖူးသည်မှအပ ညောင်လန်းကုန်းရွာကြီးမှာပင် သီတင်းသုံးကာ ဝါကပ်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၈ )

## ကောင်းမှုတော်များ

ညောင်လန်းကုန်းဆရာတော်ဘုရားကြီးရှိစဉ်အခါက ညောင်လန်းကုန်းရွာ ပတ္တမြားစေတီ ကျောင်းတိုက်ကြီးတွင် လှူဒါန်းထားကြသော အဆောက်အဦများမှာ စုပေါင်းအလှူတော်အဖြစ်ဖြင့် (၁) ပတ္တမြားစေတီ၊ (၂) ဇမ္ဗူဒီပစေတီ၊ (၃) ဓာတ်တော်တိုက်ကြီး၊ (၄) သတ္တဌာန ၇ ခန်းနှင့် ပလ္လင်တော်၊ (၅) ဘုရားရှိခိုးကျောင်းမကြီး၊ (၆) ဆွမ်းစားကျောင်း တို့ဖြစ်ကြပြီးလျှင် တစ်ဦးတည်းသော ဒါယကာများ၏ အလှူပစ္စည်းများမှာ (၇) ဘုရားဒါယကာကြီး ဦးရွှေဘဲ ဒေါ်အင်းတို့ လှူဒါန်းထားသော ဂန္ဓကုဋီတိုက်နှင့် မှန်စီရွှေချ အာရုံခံတန်ဆောင်းကြီးတစ်ဆောင်။ (၈) တစ်ခန်းတစ်ခန်းလျှင် သံဃာတော် ၂ ပါး သီတင်းသုံးနိုင်သည့် အခန်းပေါင်း (၉)ခန်းပါရှိသော ဂူကြီးတစ်ဂူ၊ (၉) သံဃာတော်အပါး ၂၀ သီတင်းသုံးနိုင်သည့် စကြံကျောင်းကြီးတစ်ဆောင်၊ (၁၀) ဦးကျော်ဝဲ ဒေါ်နှင်းအေးတို့ လှူဒါန်းသော သိမ်တိုက်ကြီးနှင့် အာရုံခံနတ်လမ်းကြီး တစ်ဆောင်၊ (၁၁) ဦးဘိုးကြီး ဒေါ်မဲတို့ လှူဒါန်းသော သစ်သားဖြင့် လုပ်ထားသည့် သိမ်ကြီးတစ်ဆောင်၊ ထိုသိမ်ကြီးမှာ လေပွေမွှေ၍ ပျက်စီးသွားသဖြင့် ထိုနေရာတွင် ဦးဘာတေ ဒေါ်ခင်နှင့် ဦးဘိုးမြိုင် ဒေါ်နှင်းအုံတို့က ဆောက်လုပ်လှူဒါန်းသည့် သိမ်တိုက်ကြီး တစ်တိုက်။ (၁၂) ဦးသာဇံ ဒေါ်မျိုးတို့ လှူဒါန်းသော ပြာသဒ်ကျောင်းတစ်ဆောင်၊ (၁၃) ဝိဝေက တိုက်သစ်ကြီး တစ်တိုက်နှင့်တွဲလျက် နတ်လမ်းမကြီးအပြင် ခြင်္သေ့ကြီး ၂ ကောင်၊ (၁၄) ဦးကြာဖူး ဒေါ်စိုးတို့



လှူဒါန်းထားသော အုတ်တိုက်စံကျောင်း၊ (၁၆) မွှာရုံကြီးနှင့် နတ်လမ်း၊ (၁၇) ဦးသာဇံ ဒေါ်ဗျိုင်းတို့ လှူဒါန်းသော ကမ္မဋ္ဌာန်းကျောင်းတိုက်တစ်တိုက်၊ (၁၉) ဒေါ်ငွေခင်က အလှူငွေ ၃၀၀ဝိ မ,တည်ကာ လိုသမျှ အများကစိုက်၍ လှူဒါန်းထားသော ဘုရားဝင်း ကျောင်းဝင်းများနှင့် ရပ်ရွာကိုပါ လျှပ်စစ်မီး ထွန်းပေးနိုင်သော အင်ဂျင်စက်ကြီးတစ်စက်နှင့် (၂၀)ကျောင်းတိုက်ကြီး တစ်တိုက်လုံး သုံးနိုင်အောင် ရေတိုင်ကီကြီး ဆောက်လုပ်ပြီး ကျောင်းတိုင်း ကျောင်းတိုင်းသို့ ရေပိုက်များ သွယ်တန်းထားကာ ရေလှည့်တင်နိုင်သော ရေစက်ကြီးကို ဦးသာလွန်းက လှူဒါန်းထားသည့်အပြင်၊ သောက်ရေကန်၊ သုံးရေကန်၊ ငါးကန်များကိုပါ စုံစုံစေ့စေ့ လှူဒါန်းထားကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၈-၁၃၉-၁၄၀ )

သက်တော် ၆၅ နှစ်သို့ ကူးတော့မည့်ဆဲဆဲ ဝါဆိုလအချိန်အခါတွင် ထိုနေ့အဖို့ ဆွမ်းဘုဉ်း ပေးရာ၌ ဖိန်းတိန်းတိန်းနှင့် လေးလံ၍လာသော်လည်း အာဂန္တုက ရောဂါဟုပင် မှတ်ထင်ကာ ပေ့ါပေ့ါပင် နေလိုက်ပြီးနောက် ညချမ်းချိန်ခါသို့ ရောက်ပြန်တော့လည်း အခါတိုင်း ကိန်းစက်နေကျ သမံတလင်း ပေါ်မှာပင် ခန္ဓာကိုယ်ကြီးမှာလည်း လေးလံ၍လာကာ လက်ျာဘက် ကိုယ်တစ်ခြမ်းမှာ လေဖြတ်၍ သွားရှာလေတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၁)

## ဝေဒနာကို သည်းခံခြင်း

နံနက် အရုဏ်တော်ကျင်းလာသဖြင့် ချိုချဉ်ပွဲဆက်ကပ်ရန်လာသော တပည့် ကျောင်းသားလေး ရောက်လာမှ ဆရာတော်ဘုရားကြီး ထတော်မမူနိုင်ကြောင်းသိရသော ကျောင်းသားကလေးမှာ ကျောင်း တိုက်ကြီးဘက်သို့ပြေးထွက်ကာ ဆရာတော်ဘုရားကြီး မထနိုင်တော့ကြောင်း ပြောပြတော့မှ တပည့်အများ စုဝေးရောက်လာကြပြီး သမားတော်များခေါ်ကာ ကုသကြလေရာ အနှိပ်ပါ,ပါမှဟန်ကျမည် ဆိုကြပြန် သဖြင့် အနှိပ်သမားတော်ကို လခပေးပြီး တစ်လလျှင် ၃ဝိ ဖြင့် ငှားရမ်းကာ ကုသကြရုံမျှမက ခမတ် ဆရာတော်ကြီးအားပင့်ကာ ညောင်လန်းကုန်းဆရာတော်ကြီး၏ ဇာတာတော်ကို စစ်ဆေးတော်မူစေရာ၊ ဆရာတော်ဘုရားကြီး၏ ဇာတာတော်မှာ စန်းပြတ်၊ လွန်းပြတ်၊ တြင်းနဝင်းပါ ပြတ်နေပြီဖြစ်သည့်အတွက် တပည့်အပေါင်းတို့၏ဝတ္တရားအရ ပင်ပန်းမှုမရှိရလေအောင်သာ ပြုစုတော်မူကြပါ။ ဆရာတော်ဘုရားကြီး ၏ ဇီဝရုပ်ဟာဖြင့် အလွန်ဆုံး ရှစ်လကျော်ကျော် ကိုးလအလွန်သာ ခံတော်မူမည်ဖြစ်ကြောင်း အမိန့်ရှိ တော်မူလေသည်။

၁၉၃၈ ဆရာတော်ဘုရားကြီးကား အေဒီ ၁၉၃၈ ခု (၁၃၀၀ ပြည့်နှစ် ဝါဆိုလ) တွင် ခန္ဓာဝန်ချတော်မူခဲ့ပါသည်။

(ကျမ်းကိုး၊ သူရိယသတင်းစာ အယ်ဒီတာ ချစ်ဆွေ၊ ဟံသာဝတီခရိုင်၊ သုံးခွမြို့အပိုင် ညောင်လန်းကုန်းရွာ၊ ပတ္တမြားစေတီတော်သမိုင်းနှင့် ညောင်လန်းကုန်း ဆရာတော် ဘုရားကြီး၏ ထေရုပ္ပတ္တိကထာ ဘီ၊ အီး၊ တီ ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ လည်း ရှု)

ပထမသိမ်တောင် အင်းမကြီးတောရ ဆရာတော်ကြီး

# ဦးဇောတိက

ခေတ်ဒီ ၁၈၇၅ – ၁၉၂၁ ( ၁၂၃၇ – ၁၂၈၃ )



## လည်ပင်းမှ ထွက်သော ထူးဆန်းသော ရောင်ခြည်တော်



ရဟန္တာဟုကျော်ကြားသော သိမ်တောင်အင်းမကြီးဆရာတော် ပျံလွန်တော်မူခါနီးတွင် ခုတင်ပေါ်၌ ပက်လက်လှန်လျက် အာနာပါနကိုသာ တွင်တွင်ကြီးရှုမှတ်နေဆဲတွင် ဆရာတော်ကြီး၏ ပခုံးအထက် လည်ပင်းပတ်လည်မှာ အလင်းရောင်များ ကွန့်မြူးနေသည်ကို ဆည်ကြီးဆရာတော်ကိုယ်တိုင် ဖူးတွေ့ကြရလေသည်ဟု ဖတ်ရှုခဲ့ရပါသည်။

ဆရာတော်ကြီးသည် သက်တော် ၄၆ နှစ် ဝါတော် ၂၆ ဝါမျှဖြင့် ခန္ဓာဝန်ချတော်မူသည်။ ဆရာတော်ကြီး တရားအားထုတ်ရတော်မူရာ အောင်မြေကျောင်းမှာ မန္တလေးတိုင်း ဝမ်းတွင်းမြို့အတွင်း၌ တည်ရှိပေသည်။

(ကျမ်းကိုး။ မွှာစရိယ ဦးဒွေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ ခု ၊ နဝမအကြိမ်၊ စာ ၅၀၈ )

## သိမ်တောင်မှာ စိန်တောင်ပေါက်သည့်နေရာ

ဝမ်းတွင်းမြို့ပေါ်မှ ၁ မိုင်လောက် အကွာအဝေးတွင်ရှိ၏။ သိမ်တောင်တောရဟုခေါ်၏။ ဧက ၃၀၀ ကျော် ကျယ်ဝန်း၏။ သိမ်တောင်မှာ စိန်တောင်ပေါက်သည်ဟု ကျော်ကြားခဲ့သော နေရာထူးကြီးဖြစ်၏။ ထိုနေရာတွင် တည်ရှိသော အနန္တလောက ရန်ပြေ ဓာတ်ပေါင်းစု စေတီတော်ကြီးမှာလည်း အသိတိဓာတ်ကိန်းတော်မူသည်ဟု ကျော်ကြားသော စေတီတော်ကြီးဖြစ်၏။

## ပထမ သိမ်တောင်တောရဆရာတော်ဖြစ်

၁၈၇၅ ပထမသိမ်တောင်တောရ ဆရာတော်ကြီးမှာ ဦးဇောတိကဖြစ်သည်။ ညောင်ရမ်းမြို့အနီး ဈေးကြီးရွာကြီးတွင် အေဒီ ၁၈၇၅ ခု ၊ နိုဝင်ဘာ ၁၂ ရက် (၁၂၃၇ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်) အင်္ဂါနေ့တွင် ဖွားမြင်တော်မူသည်။

မှတ်ချက်။ အင်္ဂါနေ့မှာ လဆန်း ၁၁ ရက်ဟု တွေ့ရပါသည်။ လပြည့်နေ့ဖြစ်လျှင် သောကြာနေ့ဖြစ်ပါသည်။

(ကျမ်းကိုး။ ပညာအလင်းပြ နှစ်တစ်ရာ ပြက္ခဒိန် ၁၉၆၆ ခု၊ ပညာအလင်းပြ ပုံနှိပ်တိုက် စာ၊ ၇၂ )

၁၈၉၅ မိဘနှစ်ပါး၏ အမည်များမှာ ဦးဖဲ+ဒေါ်အိမ်သာဖြစ်သည်။ အေဒီ ၁၈၉၅ ခု (၁၂၅၇ ခုနှစ်)တွင် ရဟန်းပြုသည်။ မန္တလေးမြို့ မိုးတားတိုက်၊ ရွှေရေးဆောင်တိုက်တို့၌ ပရိယတ္တိသင်ယူခဲ့သည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၅၀၄ )

## တောထွက်တော်မူခြင်း

၁၉၁၉ အေဒီ ၁၉၁၉ ခု (၁၂၈၁ ခု ) ရဟန်း ၆ ဝါ အရတွင် စစ်ကိုင်းတောင်၊ ပြက္ခရွှေတောင်သို့ တောထွက်တော်မူခဲ့သည်။ ဆွမ်းခံကြွလျှင် ပြက္ခရွှေတောင်မှ ဘုရားစုကိုးရွာသို့ ကြွလေ့ရှိသည်။

ဘုရားစုကိုးရွာအနီးတွင် အနော်ရထာခေတ် ရှေးရဟန္တာသိမ်တော်တစ်လုံးရှိရာ ဆေးဆရာကြီး ဆရာရှိန်၏ လျှောက်ထားတောင်းပန်မှုကြောင့် ၎င်းအနီး တောကြီးတစ်နေရာတွင် တစ်ပါးတည်း သီတင်းသုံးလေသည်။



## အင်းမကြီးဆရာတော်ဟု ထင်ရှားခြင်း

ထိုနေရာတွင် အင်းများစွာလည်းရှိသည်။ လူစ လူနလည်း ပြတ်သဖြင့် ဆရာတော်က ရွေးချယ်ခဲ့ခြင်းဖြစ်ပေသည်။ ဆောက်လုပ်လှူဒါန်းသည့် လေးတိုင်စင်ကျောင်းကလေးတွင် ကမ္မဋ္ဌာန်းတရားများကို အားထုတ်တော်မူသည် ဆရာတော်ကြီးမှာ ပရိယတ် ပဋိပတ်ဘက်စုံ တတ်မြောက်ကျွမ်းကျင်သော စွယ်စုံပြည့်ဝသည့် ဆရာတော်ကြီးပင် ဖြစ်လေသည်။ အင်းမကြီးဆရာတော်ဟု ထင်ရှားပြန်၏။

## နေ့တိုင်းလာသော ပြိတ္တာမကြီး

လေးတိုင်စင်ကျောင်းကလေးတွင် တရားများအားထုတ်စဉ် နေ့တိုင်း ပြိတ္တာမကြီး ရောက်လာခဲ့သည်။ ထိုအခါ ဆရာတော်ကြီးက ဒကာမကြီးလည်း ပြိတ္တာအလုပ်ဖြစ်ရာဘဝမှာ လုပ် ငါလည်း ပြိတ္တာဘဝတုန်းက ခြောက်ခဲ့ရတယ်။ ခု ရဟန်းဖြစ်တော့ ရဟန်းအလုပ်လုပ်ရမှာပဲ ဟူ၍ မိန့်လေသည်။

၁၉၀၇ နောက်ပိုင်းတွင် ဆရာတော်ကြီးသည် အင်းမကြီးသိမ်တောင်မှ ဝမ်းတွင်း သိမ်တောင်တောရသို့လည်း ကြွရောက်ကာ သီတင်းသုံးတော်မူသည်။ ကမ္မဋ္ဌာန်းတရားများကို အထူးပင် အားထုတ်တော်မူလေသည်။ ဆရာတော်ကြီးသည် အင်းမကြီးတောရမှ သိမ်တောင်တောရသို့ ကြွရောက်ကာ ပြောင်းရွှေ့ခဲ့သော နှစ်မှာ အေဒီ ၁၉၀၇ ခု (၁၂၆၉ ခုနှစ်) ဖြစ်ပါသည်။ ရှေးအခါက ရဟန္တာသိမ်တော် နေရာထူးဖြစ်လေသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၅၀၇ )

## သိမ်တောင်မှာ စိန်ရောင်ပေါက်သည်ဟူသော တဘောင်

ဆရာတော်ကြီးမကြွရောက်မီမှာပင် သိမ်တောင်မှာ စိန်ရောင်ပေါက်သည်ဟူသော တဘောင်စကား ပေါ်ခဲ့ဖူးလေရာ ဆရာတော်ကြီးပင်ဖြစ်လိမ့်မည်ဟု ယုံကြည်ပြောဆိုကြလေသည်။ အမှန်တကယ်ပင်လည်းဖြစ်ခဲ့ပါသည်။ သိမ်တောင်တောရပရိဝုဏ်အတွင်း တစ်နေရာတွင် လျှိုမြောင်ချိုင့်ဝှမ်းကြီး တစ်နေရာရှိသည်။ သိမ်တောင်တောရ ဝါဆိုကျောင်းမှာ ဖာလုံဝက်ခန့်ရှိမည်။ တောင်ကုန်းငယ်ကလေး တချို့ကို ဖြတ်သန်းသွားရသည်။

## အောင်မြေ

ဂုင်းလျှိုမြောင်ကမ်းပါးနှစ်ဖက်ကို မေးတင်လျက် အထပ်ထပ်ဆောက်လုပ်ထားသော အဆောက်အအုံကြီးတစ်ခုရှိလေသည်။ ဆရာတော်ကြီး၏ တရားအားထုတ်ခဲ့ရာအောင်မြေလိုဏ်ဂူတော်ပင် ဖြစ်သည်။ အခိုင်အမာ အဆောက်အအုံကောင်းဖြစ်အောင် လက်ရှိဆရာတော်ကြီးက ပြင်ဆင်မွမ်းမံထားကြောင်းသိရသည်။

## နေရာညွှန်းပြစရာမရှိ

တိစီဝရိတ်ဓူတင်ကို အမြဲပင် ဆောင်တော်မူလျက် သီတင်းသုံးနေသမျှကာလပတ်လုံး ဆရာတော်ကြီး ဘယ်တောင်၌ သီတင်းသုံးသည်။ ဘယ်ကျောင်း၌ ကျိန်းစက်သည်။ ဘယ်နေရာ၌နေသည် စသဖြင့် နေ့ သန့်စင်ရာ ည သန့်စင်ရာတို့ကို ညွှန်ပြစရာမရှိပေ။

## ခေါင်းအုံး ခြင်ထောင်ဆိုတာ ချိန့်လား



ခေါင်းအုံး ခြင်ထောင် စောင် အိပ်ရာခင်း မျက်နှာသုတ်ပဝါမှ အစ ဆရာတော်ကြီးအတွက်မှာမူ ချိန့်လားဟု မေးယူရလောက်အောင် ကင်းရှင်းကြောင်း လက်ရှိဆရာတော်ကြီးမှ မိန့်ကြားပါသည်ဟု မှတ်တမ်းတွင်တွေ့ရပါသည်။

(ကျမ်းကိုး၊ ဦးကျော် (ပြည်) နက္ခတ္တရောင်ခြည် မဂ္ဂဇင်း ၂၀၀၃ ခု၊ စက်တင်ဘာလ၊ စာ ၂၅ - ၃၀။ အင်းမကြီးတောရဆရာတော် ဦးဇောတိက၏ သံဝေဂမွေ့ကမ္ဘဋ္ဌာန်းကျမ်း။)

## တပည့်ကြီးများ

(မှတ်ချက်) သိမ်တောင်တောရ ကျောင်းတိုက်ကြီး၌ ပထမ ဆရာတော်ကြီး ဦးဇောတိကပြီးသည့်နောက် ဆက်လက်ဆက်ခံကြသော ဆရာတော်များမှာ ကလောဆရာတော် ဦးကေသရ၊ ၎င်းနောက် ဦးညေယျ၊ ၎င်းနောက် ဦးကလျာဏ၊ ၎င်းနောက် ဦးနရိန္ဒ ၎င်းနောက် ဦးယောသိယ၊ ၎င်းနောက် ဦးအဂ္ဂဝံသ၊ ၎င်းနောက် ဦးသဝ ဦးကောသလ္လ၊ ဦးကေဝလ၊ ၎င်းနောက် ဦးဒမိတတို့ ဖြစ်ကြပါသည်။

၂၀၀၀ ဦးဒမိတသည် အေဒီ ၂၀၀၀ ခု (၁၃၆၂ ခုနှစ်) တွင် မဟာသဒ္ဓမ္မဇောတိကဓဇ ဘွဲ့တံဆိပ်တော်ကို နိုင်ငံတော်မှ ဆက်ကပ်လှူဒါန်းခဲ့သော ဆရာတော် ဖြစ်ပါသည်။

၁၉၅၂ ဦးဒမိတကို အေဒီ ၁၉၅၂ ခု (၁၃၁၄ ခုနှစ်၊ ဒုတိယ ဝါဆိုလဆန်း ၆ ရက်) စနေနေ့ ဖွား၏။ ဝမ်းတွင်းမြို့ နယ် စိန်ပန်းပင်ရွာ ဇာတိ ဖြစ်၏။ ခမည်းတော်မှာ ဦးအောင်ကင်း ဖြစ်၏။ မယ်တော်မှာ ဒေါ်စောမြ ဖြစ်၏။ ညီအစ်ကို မောင်နှမ လေးယောက် ရှိ၏။ ဒုတိယမြောက် ဖြစ်၏။

## ရဟန္တာဟု ကျော်ကြားခြင်း

အင်းမကြီး သိမ်တောင်တောရဆရာတော်ဘုရားကြီးသည် လယ်တီဆရာတော်ဘုရားကြီးနှင့် မရှေးမနှောင်းပင်လျှင် ငယ်ငယ်ရွယ်ရွယ်နှင့် အလွန်ကျော်ကြားတော်မူ၏။ ရဟန္တာဟူ၍ ထင်ရှားကျော်ကြားတော်မူခဲ့သော ဆရာတော်ကြီးဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၀၄)

## <u>တပည့်ရင်းတစ်ပါးမှာ သိမ်တောင်ဆည်ကြီး တောရဆရာတော်ဖြစ်လာ</u>

ထိုဆရာတော်ကြီး၏ တပည့်ရင်းတစ်ပါးမှာ ဦးဇဝနဖြစ်၏။ နောင်သောအခါ ဒုတိယ သိမ်တောင်ဆည်ကြီးတောရ ဆရာတော်ဟုကျော်ကြားတော်မူ၏။ ရှေးအခါက သေက္ခတောင် ဦးတိလောကထံတွင် နည်းနာခံခဲ့ဖူး၏။ နောင်သောအခါ အင်းမကြီး သိမ်တောင်ဆရာတော်၏ တပည့်ရင်းတစ်ဦးဖြစ်လာခဲ့လေသည်။

(ကျမ်းကိုး။ မဟာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃ ခု၊ မေလ စာ- ၅၈၄)

၁၉၂၁ ဆရာတော်ကြီးသည် အေဒီ ၁၉၂၁ မေလ ၁၃ ရက်၊ (၁၂၈၃ ခု ကဆုန်လဆန်း ၇ ရက်) သောကြာနေ့ ည ၁၂ နာရီ မိနစ် ၃၀ အချိန်တွင် ခန္ဓာဝန်ချတော်မူပါသည်။ သက်တော် ၄၆ နှစ်၊ သိက္ခာတော် ၂၆ ဝါ ရှိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၀၈)

ယနေ့တိုင် ရုပ်ကလာပ်တော်ကို ဖူးမြော်နိုင်သေးသော ရဟန္တာအရှင်မြတ်ကြီး

# မြင်းခြံ စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီး
# ဦးကဝိ

အေဒီ ၁၈၇၇ - ၁၉၅၂ ( ၁၂၃၉ - ၁၃၁၄ )





ဦးကဝိအရှင်မြတ်ကြီးရရှိတော်မူအပ်သော အရဟတ္တဖလ အာသဝက္ခယဉာဏ်တော်သည် ပုဗ္ဗေနိဝါသာနုဿတိဉာဏ်၊ ဒိဗ္ဗစက္ခုဉာဏ် နှစ်ပါးနှင့်အတူ ပု - ဒိ - အာ ဟူသော ဝိဇ္ဇာ သုံးပါးလုံး ရတော်မူသဖြင့် တေဝိဇ္ဇရဟန္တာ ဟုပင် ဆိုရပေမည်ဟု တွေ့ရှိရပါသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယဦးဌေးလှိုင်၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၁၁)

အင်းခမ်းတော့ငှက်ကျ၊ ငှက်ကျတော့လယ်တီ၊ လယ်တီတော့ထွန်ဆင်းဟူသော တဘောင်ကြီး တစ်ခုသည် ရှေးအခါကပေါ်ဖူး၏။ငှက်ဆိုသည်မှာ ငှက်တွင်းဆရာတော်ဟု ဆိုလိုကြောင်း၊ လယ်တီမှာ လယ်တီဆရာတော်ကို ဆိုလိုကြောင်း၊ ထွန်ဆင်းမှာ မြင်းခြံစွန်းလွန်းဆရာတော်ကို ဆိုလိုကြောင်း သိရှိရပါသည်။

## ထွန်ဆင်း (သို့မဟုတ်) စွန်းလွန်းဆရာတော်ဟု ခေါ်တွင်ခြင်း

၎င်းထွန်ဆင်းဆရာတော်ဟု ဆိုအပ်သော စွန်းလွန်းဂူကျောင်းဆရာတော်၏ ဘွဲ့အမည်မှာ ဦးကဝိဖြစ်၏။ တချို့က ထွန်ဆင်း (သို့မဟုတ်)ထွန်ထောင် ဆရာတော်ဟူ၍လည်း ခေါ်ဝေါ် သမုတ်ကြ၏။ နောင်အခါတွင် မြင်းခြံမြို့ စွန်းလွန်းဂူကျောင်းတိုက်တွင် သီတင်းသုံးတော်မူသောကြောင့် စွန်းလွန်း ဂူကျောင်းဆရာတော်ကြီးဟူ၍ ထင်ရှားကျော်ကြားလာခဲ့ခြင်းပင်တည်း။

၁၈၇၈ စွန်းလွန်းရွာတွင် နေထိုင်သော အဖ ဦးသန့်၊ အမိ ဒေါ်တုတ် တို့မှ အေဒီ ၁၈၇၈ မတ်လ ၄ ရက်၊ (ကောဇာသက္ကရာဇ် ၁၂၃၉ ခုနှစ်၊ တပေါင်းလဆန်း ၂ ရက်) တနင်္လာနေ့ နံနက် ၃ ချက်တီး ကျော်တွင် မွေးဖွားသန့်စင်ပြီး ခေါင်းဆေး မင်္ဂလာပြု လုပ်သည့်အခါ မောင်ကျော်ဒင်ဟု အမည်နာမ တွင်စေ၏။

ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၁၁)

သက္ကရာဇ် ၁၂၃၉ ခုနှစ် တပေါင်းလဆန်း ၂ ရက်၊ တနင်္လာနေ့ နံနက် လေးချက်မတီးမီ အချိန်တွင် ထူးမြတ်သည့်ပုံသွင်နှင့် သားကောင်းရွှေစင်ကို ဖွားမြင်လေသည် ဟူ၍ လည်းတွေ့ရပြန်ပါသည်။

(မှတ်ချက်။ ဦးတင်ဖေ၊ ဘောက်ထော်၊ ဂူကျောင်း ဒါယကာ မြင်းခြံမြို့၊ ကျေးဇူးရှင် စွန်းလွန်း ဂူကျောင်းဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျယ်နှင့် တရားတော်များ ဆဋ္ဌမအကြိမ်၊ ရိုက်ခြင်း၊ အဖိုး ၂ ကျပ်၊ စာ ၉ လည်း ရှုပါ။)

## ငယ်မည် မောင်ကျော်ဒင်

မွေးချင်းပေါက်ဖော် သုံးယောက်ရှိသည့်အနက် မောင်ကျော်ဒင်မှာ ဒုတိယမြောက် သားရတနာ ဖြစ်၏။ အကြီးဆုံး အစ်မကြီးမှာ မသင်း ဖြစ်ပြီး ညီဖြစ်သူ အငယ်ဆုံးမှာ မောင်အောင်ခိုင် ဖြစ်လေသည်။

(ဦးတင်ဖေ၊ ဘောက်ထော်၊ ဂူကျောင်း ဒါယကာ မြင်းခြံမြို့၊ ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျယ်နှင့် တရားတော်များ ဆဋ္ဌမအကြိမ်၊ ရိုက်ခြင်း၊ အဖိုး ၂ ကျပ်၊ စာ ၁၀ )

## ဉာဏ်ထိုင်းသဖြင့် စာကောင်းစွာ မတတ်ခဲ့

မောင်ကျော်ဒင် ငယ်စဉ်ကလေးဘဝက မြင်းခြံမြို့ မင်းကျောင်းဆရာတော်ထံ အပ်နှံ၍ စာပေ သင်ကြားစေခဲ့သော်လည်း ဉာဏ်ထုံထိုင်းလှသဖြင့် စာကောင်းစွာ မတတ်မြောက်ခဲ့ပေ။ အသက် ၁၅ နှစ်အရွယ်သို့ ရောက်လတ်သော် ဖခင် ဦးသန့်နှင့်အတူ မြင်းခြံမြို့၊ အရေးပိုင်မင်းရုံးတော်၌ မင်းစေအဖြစ် ဝင်ရောက် အမှုထမ်းရလေ၏။



(စာသင်သော်လည်း စာမတတ်သဖြင့် ကျောင်းမှ ထွက်ဟုလည်း သိရပါသည်။ ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၁၁)(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၁၀)

ကျောင်းမှ ထွက်ပြီးနောက် ဖခင်ကြီးနှင့်အတူ အရေးပိုင်ရုံးတွင် ယပ် လေကြိုး ဆွဲရသော မင်းစေအလုပ်လုပ်ခဲ့ကြောင်း အသက် ၃၀ အရွယ်တွင် အလုပ်မှ ထွက်ကြောင်း တောင်ယာ လုပ်စား ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများနဝမအကြိမ် ၁၉၉၃၊ စာ ၅၁၁)

## မရွှေရီနှင့် အိမ်ထောင်ကျ

အချိန်တန် အရွယ်ရောက်လာသော ကိုကျော်ဒင်သည် တစ်ရွာတည်းနေ မရွှေရီ ဆိုသူနှင့် ရည်ငံသင့်မြတ်၍ သားသမီး လေးယောက်ထွန်းကားခဲ့လေသည်။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၁၀)

## သားသမီး သုံးယောက်ရ

သို့ရာတွင်သားသမီးသုံးယောက်မှာ လူသားမမြောက်မီ ငယ်ရွယ်စဉ်က သေဆုံးကြသဖြင့် သားဖြစ်သူ မောင်ရှိန်ခေါ် မောင်ကံညွန့်တစ်ယောက်သာကျန်ရှိခဲ့၏။

ကိုကျော်ဒင်သည် မင်းခစားအလုပ်ဖြင့် တိုးတက်ရန် လမ်းစမမြင်တော့လေရာ အသက် ၃၀ အရွယ်သို့ ရောက်လတ်သော် အလုပ်မှနုတ်ထွက်ပြီး မိဘတို့၏ လက်ငုတ်လက်ရင်းဖြစ်သော လယ်ယာ လုပ်ငန်းဖြင့်သာလုပ်၏။

## ဆီမီးတစ်ထောင် အဓိဋ္ဌာန် နှမ်းကြဲ

ကိုကျော်ဒင်သည် လုပ်ငန်းကို လုပ်ကိုင်နေရာမှ တစ်ခါသော် ယာကွက်အသစ်တစ်ကွက်ကို ထပ်မံဝယ်ယူလိုက်ပြီး နှမ်းတင်းလေးဆယ် ထွက်က ဘုရားတွင် ဆီမီးတစ်ထောင် ပူဇော်မည်ဟူသော အဓိဋ္ဌာန်ဖြင့် ယာသစ်ထဲ၌ နှမ်းကို ကြဲလေသည်။ ထိုနှစ်တွင် မိုးခေါင်သဖြင့် တခြားသူများ၏ နှမ်းခင်းများ ပျက်စီးကုန်သော်လည်း ကိုကျော်ဒင်၏ ယာကွက်ထဲမှ နှမ်းခင်းများ မပျက်စီးဘဲ နှမ်းတင်းရေ လေးဆယ် တိတိ တစ်လက်မစွန်းမျှ အပိုမရှိ ကောင်းမွန်စွာရရှိလေသည်။

၁၉၁၉ ထိုအခါ အဓိဋ္ဌာန်ထားသည့်အတိုင်း နှမ်းကို ဆီကြိတ်ပြီး အေဒီ ၁၉၁၉ ခု ၊ အောက်တို ဘာလ ၈ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၂၈၁ ခုနှစ်၊ သီတင်းကျွတ်လပြည့်နေ့)တွင် ဘုရား ၉ ပိဿာ၊ တရား ၁ ပိဿာ၊ သံဃာ ၄ပါးကို တစ်ပါးလျှင် ၂ ပိဿာ စီလှူဒါန်း၍ ဆီမီးရေစက်ချ ပရိတ်တရားတော်နာပြီးလျှင် ရွာ၏အရှေ့တောင်ဘက်ရှိ စေတီတော်တွင် ဆီမီးတော်တစ်ထောင် ထွန်းညှိပူဇော်လေသည်။

၁၉၁၉ အေဒီ ၁၉၁၉ ခု (၁၂၈၁ ခုနှစ်)တွင် မြင်းခြံတစ်မြို့လုံးသာမက ရွာနီးချုပ်စပ် တောအရပ်ဒေသများ၌ပင် အနာရောဂါအမျိုးမျိုး ထူပြောကာ ရောဂဗ္ဗရကပ်ကြီး ဆိုက်ရောက်နေသဖြင့် လူများ အသေအပျောက်များနေ၏။ ထိုအချိန်တွင် ကိုကျော်ဒင် တစ်ယောက်မှာ မိမိတို့မိသားစု စီးပွားဥစ္စာ တိုးတက်လာပြီ ဖြစ်သော်လည်း မိမိ၏ အသက်သင်္ချာရာဇ်ကို တွက်စစ်ကြည့်သော် စနေဂြိုဟ်ထဲသို့ ရောက်ရှိနေပြီ ဖြစ်လေရာ ကပ်ရောဂါနှင့် တွယ်ငြိပြီး သေရာမှာကို ကြောက်သွားမိလေသည်။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၂၃)

## သေရမှာကြောက်၍ ကျင့်ကြံအားထုတ်



ကိုကျော်ဒင်သည် သေရမည့်အရေး ကြောက်လန့်တွေးရင်း ကုသိုလ်ကောင်းမှုများ ရစေရန် အလို့ငှာ အလုပ်လုပ်နေလျှင်သော်လည်းကောင်း၊ လမ်းလျှောက်သွားနေလျှင်လည်းကောင်း၊ ထိုင်နားနေလျှင်သော်လည်းကောင်း၊ အိပ်၍နေလျှင်သော်လည်းကောင်းနှာသီးဖျားမှ ဝင်လေထွက်လေအာနာပါနအသိတရားများနှင့်တကွ ကမ္မဋ္ဌာန်းတရားများကို နေ့စဉ်နှင့်အမျှ ကျင့်ကြံအားထုတ်ပွားများလေသည်။

စွန်းလွန်းဆရာတော်ဦးကဝိ တရားထူး တရားမြတ်ရရာတွင် အဓိက နည်းပေးလမ်းညွှန်ပြုသူ တစ်ဦးမှာ ဦးစံတင်ဆိုသူ ဖြစ်ကြောင်း သိရှိရပါသည်။ ဦးစံတင်သည် သမာဓိမှော်အောင်သူဟု ပြောသူက ပြောကြပါသည်။ တစ်ခါတရံ ကမ္ဘာစောင့် နတ်ကြီးများ ပူးကပ်ခံရသူဟုလည်း ဆိုကြပါသည်။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၁၀)

ဦးစံတင်၏ အနာဂတ်ဟောချက်ကို မှတ်တမ်းတင်ခဲ့သူများ ရှိခဲ့ပါ၏။ ဖတ်ကြည့်ပါ။

> အမယ်ဗုစ် ချည်ခင်ဟာ ဘယ်လောက်ပဲရှုပ်ရှုပ်၊ ရက်ကန်းစင်ကျရင် ရှင်းသွားတာပဲ ကိုကျော်ဒင်ရဲ့။ အမယ်ဗုစ်ခေါ်တဲ့ ဒီဘုရားရှင် လက်ထက်မှာ အဝိဇ္ဇာချည်ခင်ရှုပ်ကြီးကို သတိပဋ္ဌာန် ရက်ကန်းစင်မှာ သတိလွန်း တစ်လုံးတည်းနဲ့ပဲ ကိုကျော်ဒင် ခင်ဗျားရှင်းရလိမ့်မယ်ဗျာ။
>
> အဲဒီအခါမှာ စွန်းလွန်းရွာ တောင်ဘက်မှာ တကယ့်ရက်ကန်းစင်လဲပေါ်လိမ့်မယ်။ ရက်ကန်း စင်ပေါ်တဲ့ ကျွန်းဖိုကုန်းမှာ ခင်ဗျား သာသနာပြုရလိမ့်မယ်။ သာသနာပြုတဲ့အခါ ကျွန်းတိုင်နှစ်လုံးပဲ ပါလိမ့်မယ်။ ဘုရားငုတ်တို ရောင်တော်လွှတ် ဆိုတာက ပဋိပတ္တိသာသနာတော်ကြီး ငုတ်တိုနေတဲ့ ပြန်ပေါ်လာတော့မယ်လို့ ဆိုလိုတာပဲဗျာ။ အဲဒီတော့ ကိုကျော်ဒင် ခင်ဗျားရဲ့ တရားလက်ခတ်သံကို တစ်နိုင်ငံလုံး ၃၁ ဘုံလုံးက ကြားလာရမှာဟု ဆက်တိုက် မမောနိုင်မပန်းနိုင် ပြောလျက်ရှိရာ၊ မွန်းစံတင် တော်စမ်းပါကွာ တောက်တီးတောက်တဲ့တွေ ပြောမနေစမ်းပါနဲ့ဟု ဦးကျော်ဒင်က မကြားလိုဟန် ပြောလိုက်သောအခါ ခင်ဗျားစောင့်ကြည့်သေးတာပေါ့ဟု ပြောလိုက်၏။
>
> (ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၁၄) ( ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၁၁)

## အတပ်ဟောသော ပညာကြီး

ထိုသို့ ကျင့်ကြံပွားများမှု များလာသောအခါ ရွာကလူတွေနှင့် စကားပြောနည်းလာပြီး တချို့လူများနှင့်တွေ့လျှင် ဟေ့ မင်းတို့ ဘုရား၊ တရား၊ သံဃာ ဖက်ကြ။ မင်းတို့ သေတော့မယ်။ ၃ ရက်ကြာသေမယ်။ ၅ ရက်ကြာသေမယ်၊ ၇ ရက် ကြာသေမယ် ဟူ၍ သတိပေးစကားပြော၏။ သတိပေးခံရသူများသည် ကိုကျော်ဒင် ပြောသည့်အတိုင်း သေကုန်ကြသဖြင့် ရွာသူရွာသားများက ကိုကျော်ဒင်ကို အလွန်တရာ အံ့ဩမိကြလေသည်။

## ပျောက်စေ ဆရာကြီးဖြစ်လာ

ယင်းနောက် ရွာတွင် နွားပျောက်ကစပြီး လူနာအတွက် ဓာတ်စာနှင့် ဆေးဝါးများ လာမေးကြသည်ကိုပင် တပ်အပ်ပြန်လည်ဖြေကြားနိုင်ခဲ့လေရာ ကိုကျော်ဒင်အား ရွာမှလူများက



အကြားအမြင်ဆရာကြီးဟူ၍လည်းကောင်း၊ ပျောက်စေ ဆရာကြီးဟူ၍လည်းကောင်း၊ အသိအမှတ်ပြုလာကြသည်။

ကိုကျော်ဒင်သည် နေ့စဉ် နိစ္စဓူဝ ဝိပဿနာကမ္မဋ္ဌာန်းတရားကို ကြိုးကြိုးကုတ်ကုတ် အားထုတ်နေလေရာ ဇနီးဖြစ်သူက မကြားဝံ့မနာသာ အပြစ်စကားများပြောသော်လည်း ကိုကျော်ဒင်မှာ တုတ်တုတ်မျှမလှုပ်။ ခန္တီစသော သည်းခံခြင်းဟူသော တရားကိုသာ ရင်ဝယ်ပိုက်လျက် တရားဓမ္မကို ဆက်လက်အားထုတ်ပွားများလျက် ပွားများမြဲပင်။

၁၉၂၀ ကိုကျော်ဒင်သည် ဇနီးဖြစ်သူ မကြည်ဖြူသည် ကြားမှ ဝိပဿနာ ကမ္မဋ္ဌာန်းတရားကို ဆက်လက် အားထုတ်လိုက်ရာ အေဒီ ၁၉၂၀ ဩဂုတ်လ ၁၂ ရက်၊ (၁၂၈၂ ခုနှစ်၊ ဒုတိယ ဝါဆိုလပြည့်ကျော် ၁၃ ရက်) ကြာသပတေးနေ့ ည ၁၀ နာရီတွင် ပထမအကြိမ် တရားထူးကို ရတော်မူလေသည်။

၁၉၂၀ အေဒီ ၁၉၂၀ ၊ စက်တင်ဘာလ ၁၁ ရက် ၊ (၁၂၈၂ ခုနှစ်တွင် ဝါခေါင်လပြည့်ကျော် ၁၃ ရက်) စနေနေ့ ည ၁၀ နာရီတွင် ဒုတိယအကြိမ် တရားထူးကို ရတော်မူလေသည်။

၁၉၂၀ အေဒီ ၁၉၂၀ ၊ အောက်တိုဘာလ ၁၀ ရက်၊ (၁၂၈၂ ခုနှစ်၊ တော်သလင်းပြည့်ကျော် ၁၃ ရက်) တနင်္လာနေ့၊ ည ၁၀ နာရီတွင် တတိယအကြိမ် တရားထူးကို ရတော်မူလေသည်။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၂၄၊ ၂၇၊ ၂၈)

(မှတ်ချက်) တော်သလင်းလပြည့်ကျော် ၁၃ ရက်နေ့မှာ တနင်္ဂနွေနေ့ ဖြစ်ပါသည်။

(ကျမ်းကိုး ၊ ပညာအလင်းပြ နှစ်တစ်ရာပြက္ခဒိန် ၁၉၆၆ ၊ ပထမအကြိမ် စာမျက်နှာ ၃၄၁ ကိုကြည့်ပါ။)

တရားထူးရခြင်းနှင့် စပ်လျဉ်း၍ ဆရာစဉ်ဆက် လေ့လာသုံးသပ်ပုံ အချို့ကို တင်ပြမှသာလျှင် စွန်းလွန်းဆရာတော်ဘုရားကြီး၏ ရဟန်းထူး ရဟန်းမြတ်ဘဝကို ထင်သာမြင်သာ ဖြစ်ပေလိမ့်မည်။ ထို့ကြောင့် အောက်ပါကောက်နုတ်ချက်ကိုဖတ်ကြည့်ပါ။

> **ထိုရထားပျံကြီး၏ ထောင့်လေးထောင့်တွင် နတ်မင်းကြီးလေးယောက်နှင့် လက်ယာဘက်တွင် သိကြားမင်းကိုတွေ့ရ၏။ အားလုံး အရိုအသေပြုနေကြသည်။ တစ်နေ့ကပင် ကျောင်းအနီး၌ မှို့ပွင့်ကြီး တစ်ပွင့်တွေ့၍ နုတ်လိုက်ရာ မှိုငုံ မှိုမြစ်ပါမကျန် တစ်အုံလုံး ကျွတ်ထွက်လာသည်ကို တွေ့ရကတည်းက အမြစ်ပြတ် လုံးဝအကျွတ်အလွတ် တရားရတော့မည်ဟု ယူဆကာ အရိုးကြေကြေ အရေခန်းခန်း မထတမ်း ကြိုးစားခဲ့ရာ ယခု နတ်သိကြားများကို တပ်အပ်သေချာ တွေ့မြင်ရပြန်သောအခါ ငါ့အား တရားထူးရ တော့မည်ဖြစ်၍ လာရောက်စောင့်ကြသည်ဟု မှတ်ထင်လိုက်၏။ နတ်ရထားနှင့် နတ်သိကြားတို့ကို ဂရုမမူဘဲ ကြိယာပုတ် တစ်ခုတည်းဖြင့် တစ်ရှိန်တည်း တစ်သန်တည်း ခန္ဓာကိုယ်နှင့် အသက်ကိုပင် စွန့်လွှတ်၍ အားထုတ်ရာ ထိုနေရာ၌ပင် ရဟန္တာ ဖြစ်တော်မူလေ၏။**

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၁၀)

၁၉၂၀ အေဒီ ၁၉၂၀ ခု နိုဝင်ဘာလ ၉ ရက်၊ အင်္ဂါနေ့ (၁၂၈၂ ခုနှစ်တွင် သီတင်းကျွတ်လပြည့်ကျော် ၁၃ ရက်) အင်္ဂါနေ့ ည ၁၀ နာရီတွင် စတုတ္ထအကြိမ်မြောက် တရားထူးကို ရရှိတော်မူလေသည်။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၃၄)



## ဘဝပေါင်းများစွာကို ဆင်ခြင်ကြည့်ရှုခြင်း

ရှင်ကဝိသည် တရားထူးများကို ရရှိပြီးနောက် မိမိကူးပြောင်းခဲ့ရသော ဘဝပေါင်းများစွာကို အကျိုးပေါ်ကနေပြီးအကြောင်းကို ပြန်လည်ဆင်ခြင်ကြည့်လေရာ တိရစ္ဆာန်ဘဝ အမျိုးမျိုးဖြစ်ခဲ့သည်က များပြီး လူ့ဘဝရရှိသည်မှာ အလွန်နည်းကြောင်းတွေ့ရှိရသည်။

## ကဿပ ဘုရားရှင် လက်ထက်က ကြက်တူရွေးဖြစ်ခဲ့

ယခုဘဒ္ဒကမ္ဘာတွင် မဟာကဿပဘုရားရှင် လက်ထက်တုန်းက ကျေးသား ကြက်တူရွေးဘဝအဖြစ်နှင့် ဘုရားရှင်အား သစ်သီးကပ်လှူ ဆုတောင်းခဲ့ဖူး သော အကြောင်းအကျိုးဆက်ကြောင့် ယခုလက်ရှိလူ့ဘဝတွင် တရားထူးများကို ပေါက်ရောက်စွာရရှိကြောင်း သိရှိရသည်။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၃၈)

## သထုံဘုရင် မနူဟာမင်း၏ ဆရာ ဗားမဲ့ဆရာတော် ဖြစ်ခဲ့

ဂေါတမမြတ်စွာဘုရားသခင်၏ သာသနာတော်အတွင်း၌ သုဝဏ္ဏဘူမိ သထုံ ပြည်ကြီးကို စိုးမိုးအုပ်ချုပ် မင်းလုပ်တော်မူခဲ့သော သာသနာ့ဒါယကာ မနူဟာ မင်းကြီး၏ ဆည်းကပ်ကိုးကွယ်ခြင်းခံရသော ဗားမဲ့ဆရာတော်ရယ်လို့ ဖြစ်ရ ပြန်သည်။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၉)

## တက္ကသိုလ်ပြည်၌ သမားတော်ကြီးဖြစ်ခဲ့ခြင်း

တစ်ခုသောဘဝတွင် တက္ကသိုလ်ဆရာကြီးဖြစ်ခဲ့ဖူးကြောင်း မှတ်တမ်းရှိပါသည်။ လေ့လာ ဆင်ခြင်ဖွယ်များ ဖြစ်ပါသည်။ ထိုဘဝက တွေ့ကြုံဆက်ဆံဖူးသူတိုင်း ယခုအခါ ငါ့ထံသို့ လာ ရောက်ကြ၍ ကိလေသာ ရောဂါကင်းဝေးအောင် တရားဆေးကို စားသုံးကြလိမ့်မည်ဟု မြင်တော်မူ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၁၂)

## ယခုဘဝ မြင်းခြံစွန်းလွန်းဖြစ်လာ

ငင်းဘဝမှ စုတေ၍ သံသရာကျင်လည်ခဲ့ပြန်ရာ ယခု လူ့ဘဝတွင် ကိုကျော်ဒင်မှသည် ရှင်ကဝိ ဘဝသို့ ရောက်ခဲ့ခြင်းဖြစ်ပေသည်။

## ရဟန်းအဖြစ်ခံယူ

၁၉၂၁ ရှင်ကဝိသည် မိတ္ထီလာ ရေလယ်ဆရာတော်ကြီး၏ တိုက်တွန်းချက်အရ အေဒီ ၁၉၂၁၊ ဧပြီလ ၁၈ ရက်၊ (၁၂၈၂ ခုနှစ် တပေါင်းလပြည့်ကျော် ၁၂ ရက်) တနင်္လာနေ့ ညနေ ၄ နာရီ ၉ မိနစ်အချိန်တွင် မိတ္ထီလာမြို့၊ ရေလယ်ကျောင်းတိုက် ခဏ္ဍသိမ်တွင် ဟင်းရန်ကန် ဆရာတော်အား ဥပဇ္ဈာယ်အဖြစ်ထားကာ ရေလယ်ဆရာတော်၊ ညောင်လွန့်ဆရာတော်နှင့်တကွ ရဟန်းတစ်ကျိပ်ကျော်တို့အား ကမ္မဝါဆရာများအဖြစ် အသီးသီးလျှာထားလျက် ကိုရင်သာမဏေဘဝမှ ရဟန်းဘောင်သို့ သွတ်သွင်း ချီးမြှောက်ခြင်းခံလေသည်။



၁၉၂၃ ဆရာတော်ဦးကဝိသည် မောင်ရင်ပေါ်ကျောင်းတွင် သီတင်းသုံးနေရာမှ အေဒီ ၁၉၂၃ နိုဝင်ဘာလ (၁၂၈၅ ခုနှစ်၊ သီတင်းကျွတ်လ)ထဲတွင် ဒါယကာဦးဘိုး ဆောက်လုပ်လှူဒါန်းသော စွန်းလွန်းချောင်းကမ်းနံဘေးရှိ သုံးပင်နှစ်ထပ်ဆောင် ကျောင်းတိုက်သို့ ပြောင်းရွှေ့ကာ သီတင်းသုံးတော်မူ၏။ ထိုကျောင်းကို စွန်းလွန်းချောက်ကျောင်းဟု ခေါ်ဝေါ်သမုတ်၏။ နောင်အခါတွင် ၎င်းကျောင်းတိုက်အနီး၌ တရားအားထုတ်ရန် ဂူများရှိသဖြင့် စွန်းလွန်းဂူကျောင်းတိုက်ဟူ၍ ယခုထိတိုင် အမည်တွင်လေသည်။ ထို့အပြင် ယင်းကျောင်းတိုက်၌ သီတင်းသုံးတော်မူသော ဆရာတော်ဦးကဝိသည်လည်း စွန်းလွန်းဂူကျောင်း ဆရာတော်ဟု ထင်ရှားလာလေသည်။

စွန်းလွန်းဆရာတော်အား ရဟန္တာဟုတ်မဟုတ် အကြမ်းဖျင်းအားဖြင့် စမ်းသပ်သူများလည်း ပေါ်ပေါက်ခဲ့ဖူးကြောင်း သိရှိရပါသည်။

> ဆရာတော်ကြွစဉ် နောက်မှနေ၍ ပေထုပ် (ပျောက်အိုး) ဖောက်ခွဲခြင်း၊ အလှူတစ်ခု၌ ဘိလပ်ရည်တွင် အရက်နှင့်ရော၍ တိုက်ခြင်းစသည်တို့ဖြင့် စမ်းသပ်ကြသည်။
>
> (ကျမ်းကိုး၊ မွှာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၅၁)
>
> ဘိလပ်ရည်နှင့် အရက်ရော၍ တိုက်ရာ၌ ပါးစပ်ထဲသို့ ဝင်သွားသော်လည်း အရက်သတ္တိ ပျက်ပြယ်သွားသည်ဟု ဦးကဝိ မိန့်၏။
>
> (ကျမ်းကိုး၊ မွှာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၅၁)
>
> တစ်ခါကမူ ခရီးသွားစဉ် ဆရာတော်နှင့် ရင်ဆိုင် မြင်းလှည်းတစ်စီး အရှိန်ပြင်းစွာ မောင်း၍လာ၏။ ဆရာတော်ကား မတုန်လှုပ်။ မြင်းလှည်းသာလျှင် အနီးသို့အရောက် ဒလိမ့်ခေါက်ကွေး တိမ်းမှောက်သွား၏။ အကြမ်းစမ်းသပ်သူများ ဒုက္ခရောက်သွားကြသတတ်။ တရားထူးရမှုနှင့်စပ်၍ မည်သူ့ကိုမှ မည်သည့်အဆင့်ဟု မိန့်တော်မမူ။ သူဟုတ်ရင် ဟုတ်လိမ့်မည်ဟုသာ မိန့်လေ့ရှိသည်။
>
> (ကျမ်းကိုး၊ မွှာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၅၁)

စွန်းလွန်းဆရာတော် ဦးကဝိ ရဟန္တာအရှင်မြတ်ကြီးသည် ငယ်စဉ်ကာလ ကိုကျော်ဒင် ဘဝက အိမ်ထောင်ကျခဲ့သော မရွှေရီဆိုသူ၏ဇာတ်လမ်းကလေးမှာလည်း အလွန်စိတ်ဝင်စားဖွယ်ရာဖြစ်ပါသည်။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၆၃)

ကိုကျော်ဒင် တစ်ဖြစ်လဲ ဦးကဝိဘဝမှတစ်ဆင့် ရဟန္တာအရှင်မြတ်ကြီး ဖြစ်တော်မူသော မြင်းခြံ စွန်းလွန်းဆရာတော်ဘုရားကြီး တရားထူးတရားမြတ် ရတော်မူသောအခါ ယခင်က လမ်းညွှန်ပြခဲ့သော လမ်းညွှန်ဆရာဦးစံတင်သည်လည်း မောင်ရင်ပေါ်ချောက်၌ ကျောင်းဆောက်ပြီးလျှင် ရဟန်းဝတ်ခဲ့လေသည်။

ထိုအခါ ဇနီးဟောင်းဖြစ်ခဲ့သော မရွှေရီ၏ ကြေကွဲဖွယ်ရာ ဇာတ်သိမ်းခန်းကလေးကို အောက်ပါအတိုင်း ဖတ်ရှုခဲ့ရပါသည်။

> **ဒေါ်ရွှေရီလည်း တရားများအားထုတ်နေ၏။ ဒေါ်ရွှေရီသည် ကာလကြာသော အခါ ကပ္ပိယဦးပြောင်းနှင့် အိမ်ထောင်ကျသည်။ နောက်ကွယ်လွန်သောအခါ ပြိတ္တာဘဝသို့ရောက်နေသဖြင့် ဆရာတော် ဟောချွတ်တော်မူရသည်ဟု သိရပါသည်။**
>
> (ကျမ်းကိုး၊ မွှာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ နဝမအကြိမ် ၁၉၉၃၊ စာ ၅၅၀)

၁၉၅၂ အေဒီ ၁၉၅၂ ခု၊ မေလ ၁၇ ရက်၊ (၁၃၁၄ ခုနှစ် ကဆုန်လပြည့်ကျော် ၉ ရက်)



စနေနေ့ ညနေ ၅ နာရီ၊ သက်တော် ၇၅ နှစ်၊ ဝါတော် ၃၂ ဝါခန့်တွင် ပရိနိဗ္ဗာန်ပြု တော်မူလေသည်။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၂၀၀)

၁၉၅၃ ကြွင်းကျန်ရစ်သော ရုပ်ကလာပ်တော်ကို ဆရာတော်ဘုရားကြီး၏ မိန့်မှာခဲ့ဖူးသော အလိုတော်အတိုင်း လွမ်းစေတီဂူတွင်းသို့ ထည့်သွင်းထားရှိခဲ့ရာ အေဒီ ၁၉၅၃၊ ဖေဖော်ဝါရီလ ၁၄ ရက်၊ စနေနေ့ (၁၃၁၄ ခုနှစ်၊ တပေါင်းလဆန်း ၂ ရက်) နေ့လယ် ၁၂ နာရီအချိန်တွင် လွမ်းစေတီဂူတွင်းမှ ရုပ်ကလာပ်တော်ကို ထုတ်ယူပြီး စံကျောင်းသို့ ပင့်ဆောင်လေသည်။

၁၉၅၄ အေဒီ ၁၉၅၄ ခု ၊ မေလ ၆ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၁၅ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၉ ရက်) ညနေ ၄ နာရီ ၅၅ မိနစ်တွင် စံကျောင်းမှတစ်ဆင့် ဂန္ဓကုဋိစေတီတော် ကြီးအတွင်း ခမ်းနားသိုက်မြိုက်စွာ ပင့်ဆောင်ထားရှိ၏။

(ကျမ်းကိုး၊ ဦးတင်ဖေ၊ စာ ၂၀၀)

စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်သည် ပရိနိဗ္ဗာန်ပြုပြီးသည့် အချိန်မှစ၍ ယခုထိတိုင် မည်သို့မျှ ချို့ယွင်းချက်မရှိ မပုပ်မသိုးတည်ရှိနေသည်ကို ဖူးတွေ့နိုင်လေသည်။

## စွန်းလွန်းဂူဆရာတော်၏ ရုပ်ကလာပ်

မြန်မာနိုင်ငံတွင် ရဟန္တာတစ်ပါးအဖြစ်ကျော်ကြားခဲ့သော စွန်းလွန်းဂူကျောင်းဆရာတော်၏ ရုပ်ကလာပ်ကို မြင်းခြံမြို့ စွန်းလွန်းဂူ ကျောင်းဝင်းအတွင်း၌ ဂန္ဓကုဋိသံသရာအေး စေတီတည်ကာ မှန်ခေါင်းဖြင့် ပူဇော်ထားပါသည်။

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ စာ ၉၅)

**စွန်းလွန်းဆရာတော် ဦးကဝိနှင့် တော်ကူးဆရာတော်တို့ ဆရာတော် နှစ်ပါးလုံးပင် လယ်သမား ယာသမားဘဝမှ သာသနာ့ဘောင်သို့ ကူးပြောင်းခဲ့ပါသည်။ ဆရာတော် နှစ်ပါး လုံးပင် အိမ်ရာထူထောင်ခဲ့ကြပြီးနောက် အသက်ကြီးရင့်သည့်အခါမှ ပဗ္ဗဇိတရဟန်းဘဝကို ရယူခဲ့ကြသည်။ သမထ ဝိပဿနာ တရားများကို စွဲစွဲမြဲမြဲအားထုတ်ခဲ့ကြသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၅)

စွန်းလွန်းဆရာတော် လောင်းလျာဖြစ်သော ဦးကျော်ဒင်သည် တောင်ယာလုပ်ကိုင်ရင်း အသက် ၄၃ နှစ်အရွယ်တွင် အာနာပါနနုဿတိ ခေါ် ထွက်သက်ဝင်သက် ကမ္မဋ္ဌာန်းကို စတင်ရှုမှတ်ခဲ့၏။

လူအမည် ဦးကျော်ဒင် ထို့နောက် ရဟန်းဘွဲ့တော် ဦးကဝိသည် သတိမြဲမြဲ ဇွဲရှိရှိဖြင့် ဝိပဿနာ ရှုမှတ်ခဲ့ရာတွင် ၇ လ အချိန်အတွင်း၌ပင် လေးမဂ် လေးဖိုလ်ရပြီး တေဝိဇ္ဇရဟန္တာအဖြစ်သို့ ရောက်ရှိ ခဲ့သည်ဆိုခြင်းမှာ အလွန်ထူးခြား အံ့ဩစရာကောင်းလှပေ၏။

စွန်းလွန်းဆရာတော်သည် ၁၃၁၄ ခုနှစ်၊ သက်တော် ၄၅ နှစ်၌ ပျံလွန်တော်မူခဲ့၏။ ‘ ငါ့သေရင်၊ ဘာမှမလုပ်နဲ့၊ ထိုးထားလိုက်’ဟူသော ဆရာတော်၏ အမှာစကားအရ ရုပ်ကလာပ်တော်ကို ကြိုတင်ပြု လုပ်ထားသည့် အုတ်ဂူအတွင်း ထည့်သွင်းပြီး အင်္ဂတေဖြင့် ပိတ်ထားလိုက်ကြ၏။

**ခုနစ်နှစ် ကြာညောင်းသည့်အခါ အထက်အညာသို့ ယခင် နိုင်ငံတော်ဝန်ကြီးချုပ်ဟောင်း ဦးနု ခရီးထွက်စဉ် စွန်းလွန်းဂူကျောင်းသို့ရောက်လာပြီး ရုပ်ကလာပ်တော်ဖူးမြော်လိုသဖြင့် ဂူပေါက်ဝကို ဖွင့်စေ၏။**



ရုပ်ကလာပ်သည် ဂူထဲမှ ထုတ်လိုက်သည့်အခါတွင် အသားအရေစစ်ပြီး သွေ့ခြောက်နေလေပြီ။ အပုပ်နံ့လည်းကင်းနေ၏။ သို့အတွက် စွန်းလွန်းဂူကျောင်းအတွင်း၌ပင် ဂန္ဓကုဋိသံသရာအေးစေတီကို တည်ပြီးလျှင် စေတီဆောက်ခြေ၌ ရုပ်ကလာပ်တော်ကို မှန်ခေါင်းဖြင့် အပူဇော်ခံထားရှိ၏။

နှစ်ပရိစ္ဆေဒ ၃၆ နှစ်ကျော် ကြာညောင်းခဲ့ပြီးဖြစ်သော ရုပ်ကလာပ်တော်သည် သစ်တုံးကဲ့သို့ မာကျောပြီး ခြေဖျား လက်ဖျား နှာသီးဖျား စသည်တို့၌ ပွန်းပဲ့နေလေပြီ။

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘဝဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီဂီပုံနှိပ်တိုက်၊ စာ ၉၇)

ဆရာတော်၏ ကြီးမားသော ဂုဏ်ကျေးဇူးများကို နှလုံးသွင်း အောက်မေ့လျက် အသုဘသညာနှင့်တကွ ရုပ်ကလာပ်တော်ကို ဖူးမြော်နိုင်လျှင်ကား ထူးကဲသော ကုသိုလ်စိတ်များ ကုဋေကုဋာ ဖြစ်ပေါ်ပေလိမ့်မည်ဟု ပညာရှင်များက မိန့်ဆိုကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၇)

မြင်းခြံမြို့ စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုတော်မူသည်မှာ ကာလအတော်ကြာပြီဖြစ်ပါသည်။ သို့သော်လည်း ယနေ့ ယခုအထိ ရုပ်ကလာပ်တော်၏ အခြေအနေကို သိလိုကြပေလိမ့်မည်။ စာတွေ့ ငါတွေ့ ဖူးခဲ့သူတစ်ဦး၏ မှတ်တမ်းကို တင်ပြပါမည်။ ဖတ်ရှုကြည်ညိုတော်မူနိုင်ပါသည်။

ဂန္ဓကုဋိတိုက်အတွင်း မှန်ကျောင်းဆောင်ဖြင့် ပူဇော်ထားသော ဆရာတော်၏ ရုပ်ကလာပ်တော်အား ဝေယျာဝစ္စလူကြီး ဦးသံခဲက ဖွင့်လှစ် ပူဇော်ခွင့်ပေးသဖြင့် အနီးကပ် ထိတွေ့ကြည်ညိုခွင့်ရခဲ့သည်။

အသားအရေမှာ နှစ်ကာလ ကြာသည်နှင့်အမျှ ညိုမောင်းသော အရောင်သို့ ပြောင်းလဲလာသည်ဟုသိရသည်။ သို့သော် မည်းညစ်သွားခြင်းမဟုတ်၊ သပြေသီးမှည့်ကဲ့သို့ ညိုဝင်းတောက်ပြောင်လာခြင်းဖြစ်သည်။ ဆေးရည်စိမ်ခြင်း၊ ဝမ်းဗိုက်တော်အား ခွဲစိတ်ပြုပြင်ခြင်းစသည်မရှိကြောင်း သက်န်းတော်ကို လှပ်၍ပြသည်။ လက်မောင်း၊ လက်ဖျံတော်အား ကိုင်တွယ်ကြည့်ရာ အချို့နေရာတွင် ခက်မာ၍ အချို့ အစိတ်အပိုင်းတွင် နူးညံ့မှုမပါသော ပျော့ပျောင်းမှုကို ခံစားရသည်။ အကြောမျှင်များကား ထင်ရှားလျက်ပင်ရှိသည်။

ခြေသည်း လက်သည်းများ ညှပ်လှီး ဖြတ်တောက်ရပါသလားဟု မေးမြန်းရာ သဒ္ဓါလွန်သူ တပည့်အချို့၏အဆိုသာ ဖြစ်ပါသည်။ လှီးဖြတ်ပေးရခြင်းမရှိပါ။ ရှင်သန်ရှည်ထွက်ခြင်းမရှိပါဟု ဦးသံခဲက ဖြေကြားသည်။

လက်ဖျံတော်အား နမ်းရှုကြည့်ရာ သင်းပျံ့စူးရှခြင်း မရှိသော အမွှေးနံ့ကိုရှူရှိုက်ရသည်။ သရက္ခန် သစ်သား၏ ရနံ့ကဲ့သို့ဖြစ်သည်။ စန္ဒကူးနံ့သာနံ့ဟု ဆိုပါသည်။ ဦးခေါင်းတော်မှ ဆံပင်များ ထိုးထောင်ရှင်သန်နေသည်ကို ဖူးမြင်ရပါသည်။

(ကျမ်းကိုး၊ ထက်မင်းကျော်စွာ၊ စွန်းလွန်းဆရာတော်ကြီးနှင့် သေခြင်း နှစ်ဆင့် ဆက်သွယ်မှု၊ နက္ခတ္တရောင်ခြည်၊ ၂၀၀၂ ခု၊ ဧပြီလ၊ စာ ၇၆)

စစ်ကိုင်းတောင်ရိုး မနောမယချောင်

# မနောမယ ဆရာတော်ဘုရားကြီး

အေဒီ ၁၈၇၇ - ၁၉၅၈ ( ၁၂၃၉ - ၁၃၂၀)





မနောမယ ဆရာတော်ဘုရားကြီး၏ အံ့ဖွယ်ထူးခြား ကြည်ညိုဖွယ်ရာများကို သိရှိရသည်မှာ သမားတော်ကြီး ဦးညဏ်ထွန်း၏ ကျေးဇူးကြောင့်ဖြစ်ပါသည်။

ဆရာတော်ဘုရားကြီးကား ပခုက္ကူမြို့နယ် မြိုင်မြို့အပေါင်း ခေါင်းကွဲကျေးရွာနေ ခမည်းတော် ဦးစံဘော် မယ်တော် ဒေါ်မိန်းကလေးတို့မှ မွေးဖွားသည့် သားသမီးသုံးဦး အနက် ဒုတိယသားတော်ဖြစ်ပါသည်။ အကြီးဆုံးက အစ်မကြီးဖြစ်၍ တတိယ သားတော်မှာ မင်းကွန်းတောင်ရိုး အရိယာမဂ္ဂင်ချောင် ဆရာတော်ဘုရားကြီး ဦးအရိန္ဒမ (အဂ္ဂမဟာပဏ္ဍိတ)ဖြစ်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ သမားတော်ကြီး ဦးညဏ်ထွန်း၊ ဗုဒ္ဓ၏ ပထမဦးစကားတော်နှင့် အန္တိမပန်းတိုင် ၂၀၀၄ ၊ ဇန်နဝါရီလ၊ အဲဗားဂရင်း ပုံနှိပ်တိုက်၊ ရန်ကုန်၊ စာ ၄၉ )

**ဆွမ်း**

တစ်နေ့တာရသမျှ ဖြစ်လာသမျှသော ဆွမ်းဖြင့်သာ မျှတအောင် ဘုဉ်းပေးတော်မူပါသည်။ အပိုအလျှံများ ကြိုတင်သိုမှီးထားမှု မပြုလုပ်ပါ။ ရံခါ သက်သတ်လွတ် ရံခါ မီးလွတ်တို့ကို လပိုင်းရက်ပိုင်းအားဖြင့် ဘုဉ်းပေးတော်မူ၍ သန္တုဋ္ဌိ သလ္လေခတရားများကို ပွားများတော်မူပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၀)

**ဆေး**

ဝါဠုကယန္တရား တစ်ဖုံနှင့် ထုံ ပြဒါးတစ်အိုးတို့ကို အမြဲတမ်းထားတော်မူလျက် အလိုရှိသည့်အခါ ဆေးအဖြစ်ဖြင့်လည်းကောင်း လောကီကိစ္စများအတွက်လည်းကောင်း အသုံးပြုတော်မူပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၀)

**ကျောင်း**

တိုင်တစ်လုံး ဒိုင်းရှစ်ချောင်း သက်ကယ်မိုး သုံးဖက်မြင် တစ်ဖက်ထရံကျဲကာ ဝါးကြမ်းခင်း ဝါးလုံးကို ခေါင်းအုံးပြုလျက် ထီးသဏ္ဍာန် ဆောက်လုပ်ထားသည့် ထီးဖြူရုံ၌ အမြဲသီတင်းသုံးပါသည်။ တရားဟောဌာနလည်းဖြစ်ပါသည်။

အလယ်မှတိုင်ကို အဖြူ အနီ အနက် အဝါဟူသောခတ်ကြီးလေးပါး အမှတ် အသားအရောင်များကို သဘော်ဆေးဖြင့်သုတ်လိမ်း၍ ကသိုဏ်းရှုတော်မူပါသည်။

ထီးဖြူရုံ ဒါယကာမှာ မန္တလေးမြို့ ဆိုင်းတန်းရပ် ဆီကုန်သည် ဦးသွဲ့ ဒေါ်ပု သမီး မသောင်းညွန့်၊ သား မောင်ဝင်းစိန်တို့ ဖြစ်ကြပါသည်။ ရှေးမူမပျက် ဆက်လက်၍ ထိန်းသိမ်းထားပါသည်။

တိုင်တစ်လုံးတည်ထားခြင်းမှာ သံသရာဝဋ်မှ လွတ်ရာဌာနဟူသည် နိဗ္ဗာန်မှ တစ်ပါး အခြားမရှိဟု သိစေတော်မူလိုရင်းဖြစ်ပါသည်။

ဒိုင်းရှစ်ချောင်းထားခြင်းသည် ထို နိဗ္ဗာန်သို့ ရောက်ကြောင်းကျင့်စဉ်မှာ အဂ္ဂင်ရှစ်ပါး မဇ္ဈိမ ပဋိပဒါ ကျင့်စဉ်မှတစ်ပါး အခြားမရှိဟု သိစေတော်မူပါသည်။

အရောင်လေးမျိုးဖြင့် သုတ်လိမ်းထားခြင်းမှ မဇ္ဈိမပဋိပဒါ ကျင့်စဉ်ဖြင့်သာ သစ္စာလေးပါးတို့ကို သိစွမ်းနိုင်သည်ဟု သိစေခြင်းဖြစ်ပါသည်။

သက်ကယ်ဖြင့် မိုးထားခြင်းသည် ဤထီးဖြူရုံမှနေ၍ သတ္တဝါတို့၏ အသက်ကို ကယ်တင်မည်ဟူသော ရည်ရွယ်ချက်ကို သိစေပါသည်။



တစ်ဖက်ကာရံ၍ သုံးဖက်ဖွင့်ထားခြင်းသည် ငါ ငါ့ကိုယ်နှင့် တိစိဝရိက် သက်န်းမှတစ်ပါး အခြားဘာမျှမရှိဟု သိစေပါသည်။ အာဝါသ ပလိဗောဓဖြတ်ခြင်း ဖြစ်ပါသည်။

ဒါယကာ ဒါယိကာမတို့က ကျောင်းသစ်များ ဆောက်လုပ်လှူဒါန်းလိုပါက တစ်ခန်းပတ်လည် နှစ်ခန်းပတ်လည် စသဖြင့် ကျောင်းငယ်များကို ဆောက်လုပ် လှူဒါန်းစေပါသည်။

ကြီးကြီးမားမား၊ ကောင်းကောင်းမွန်မွန် ဆောက်လုပ်လှူဒါန်းလိုသော ဒါယကာ ဒါယိကာမများ ပေါ်လာပါက 'ဟေ့ မောင်အရိန္ဒမထံ သွားသူက အနေကောင်းနေချင် အစားကောင်း စားချင်တယ်ကွ'ဟု ဆိုမိန့်တော်မူပြီး ညီတော်ထံ လွှဲပြောင်း ဆောက်လုပ်စေပါသည်။

(ကျမ်းကိုးယင်းကျမ်း၊ စာ ၅၀-၅၁)

## ကျောင်းအလှူခံပုံ

ကျောင်းငယ်လေးများကို အလှူခံတော်မူရာ၌ စတုဒ္ဒိသနည်းဖြင့် အလှူခံတော်မူပါ သည်။ စတုဒိသာမဟုတ်ပါ။ စတုဒ္ဒိသဆိုသည်မှာ ရည်ရွယ်ချက်လေးမျိုးဟုဆိုပါသည်။

| | |
|---|---|
| ၎င်းကျောင်း၌ ဘုရားထားလျှင် | ဂန္ဓကုဋီ၊ |
| ဘုန်းကြီး ရဟန်း သာမဏေတို့နေလျှင် | ကျောင်း၊ |
| ဥပုသ်သည် သူတော်စင် သီလရှင်တို့နေလျှင် | ဇရပ်၊ |
| လူပုဂ္ဂိုလ်တို့ နေလျှင် | အိမ်၊ |

ဟူသော ရည်ရွယ်ချက်ဖြင့် လေးမျိုးတို့ဖြင့် လှူဒါန်းကြရပါသည်။ သို့မှသာ ၎င်းအဆောက်အဦ၌ မည်သည့်ပုဂ္ဂိုလ်မျိုးနေနေ အပြစ်ကင်းမည်ဖြစ်ပါသည်။ အမြော်အမြင် ကြီးလှပါသည်။ ကိုယ်ပိုင် အဖြစ်ဖြင့် အလှူမခံရုံမျှမက ရဟန်းဆိုသည်မှာ အမာမက အပရိဂ္ဂဟ ကိုယ်ပိုင်ပစ္စည်း မရှိရ၊ သိုမှီး သိမ်းဆည်းခြင်း မပြုရဘူးကွဟုလည်း မိန့်တော်မူပါသည်။

(ကျမ်းကိုးယင်းကျမ်း၊ စာ ၅၁-၅၂)

## ဂန္ထဓုရ

၁၉၀၂ အေဒီ ၁၉၀၂ ခု (၁၂၆၄ ခုနှစ်) ဆရာတော်ကြီးသည် ရဟန်း ၅ ဝါ တိုင်အောင် ကျမ်းတတ် အကျော်အမော် ဆရာတော်တို့ထံ၌ ပိဋကကျမ်းစာများ သင်ယူခဲ့ကြောင်း သိရပါသည်။

၁၉၁၂ အေဒီ ၁၉၁၂ ခု (၁၂၇၄ ခုနှစ် )ရဟန်း ၁၅ ဝါရသည့် တိုင်အောင် နေ့ ည မပြတ် စာပေကျမ်းဂန်များကို ပို့ချပေးတော်မူပါသည်။ စာပေ ပို့ချတော်မူရာ၌လည်း များ သောအားဖြင့် နိဿယ မကိုင်မူ၍ နိဿယလွတ် ပို့ချတော်မူပါသည်။ ထိုစဉ်က နိဿယလွတ်ပို့ချနိုင်မှသာ စာတတ်သည်ဟု အသိအမှတ်ပြုကြပါသည်။

(ကျမ်းကိုးယင်းကျမ်း၊ စာ ၅၂)



### ဝိပဿနာဌူရ

ဒုတိယကမ္ဘာစစ်ကြီး ဖြစ်လာသည့်အခါ စာပေကျမ်းဂန် ပို့ချတော်မူခြင်းကို ရပ်နားတော်မူ၍ မြေလျှိုးမိုးပျံ စျာန်အဘိညာဉ် တန်ခိုးတို့ကို ရတော်မူလိုသည့် ဆန္ဒတော်များ ပြင်းပြလာသည့်အတွက် မဂ္ဂင်ချောင်မှထွက်၍ (ရွှေအခေါ်) ဂူကြီးချောင် (ယခုအ ခေါ်)မနောမယချောင်သို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူလျက် ဝိပဿနာ ဓူရ အလုပ်များကို မနေမနား အချိန်ကို အချည်းနှီးမထားဘဲ ကြိုးစားအားထုတ်တော်မူပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၂)

### တပည့်များနှင့် ဆက်ဆံပုံ

မိမိထံသို့ရောက်လာသူ တပည့် ဒါယကာ ဒါယိကာမများအား အယုတ် အလတ် အမြတ်မရွေး တစ်ပြေးတည်းထား၍ ဆက်ဆံတော်မူပါသည်။

ထီးဖြူရုံအတွင်း တရားနာခြင်းကိုပင်လျှင် အလျှင်ရောက်သူက ရှေ့မှထိုင်၍ နောက်မှရောက်သူက နောက်မှထိုင်ရပါသည်။ မည်မျှ ဓနဥစ္စာ ဂုဏ်ပါဝါတို့ ကြီးစေကာမူ ရှေ့တက်ခွင့်မရပါ။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၂-၅၃)

### သာသနာပြုတော်မူပုံ

ဆရာတော်ဘုရားကြီးသည် မနောမယတောင်တန်းနှင့်တကွ အနီးရှိ တောင် ဝန်းတစ်ခုလုံး ဘုရားငယ် စေတီငယ် ဂူငယ် ကျောင်းငယ် ရေကန်ငယ်တို့ဖြင့် ဖွေးဖွေး ဖြူအောင် သာသနာပြုတော်မူခဲ့ပါသည်။

ဘုရား စေတီ ကျောင်းတို့ကို ကြီးကြီးမားမား တည်တော်မမူဘဲ အမြင့်ဆုံး ကိုးတောင် ပမာဏမျှသာ တည်တော်မူခဲ့သည်။

ရေကန်ကိုမူ ကျေးငှက်တိရစ္ဆာန်များ သောက်သုံးနိုင်ရန် အင်တုံ ပမာဏမှ စ၍ ပေ ၄၀/ ၅၀ ပတ်လည် တိုင်အောင်သော ရေကန်ကြီးငယ်တို့ကိုလည်း များစွာ တည်တော်မူခဲ့ပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၃)

ဘုရားဘွဲ့တော်များမှာ သတ္တဌာန ဘုရားများ အပါအဝင် ရွှေမုဋ္ဌော၊ ရွှေဟင်္သာ၊ ကြံတိုင်းအောင်၊ အမတ စသည်ဖြင့် ပေးတော်မူခဲ့ပါသည်။ ချောင်အမည်များမှာ -

### မနောမယ

ဤချောင်၌ ဆရာတော်ဘုရားကြီးသည် စိတ်အလိုရှိတိုင်းပြီးတော်မူပါသည်။ အဓိကအားဖြင့် သီတင်းသုံးတော်မူပါသည်။ အံ့ဖွယ်ဖြစ်ရပ်များကိုမူ သတိ ထားသူ ဒါယကာ ဒါယိကာမများသာ သိကြပါသည်။



**မဟိဒ္ဓိ**

ဤချောင်၌ ဆရာတော်ဘုရားကြီးသည် သူမတူအောင် တန်ခိုးကြီးတော်မူပါသည်။ တန်ခိုးဣဒ္ဓိပါဒ်တို့နှင့်ပြည့်စုံ၍ ကိုးကွယ်သူတို့ဖြင့် လျှမ်းလျှမ်းတောက်သောအချိန် ဖြစ်ပါသည်။

**အမတ**

ဤချောင်၌ ဆရာတော်ကြီးသည် မအို မနာ မသေရာဖြစ်သော တရားထူးကို သိမြင်တော်မူသည်ဟု အများက ယူဆကြပါသည်။ အမတဟူသည် နိဗ္ဗာန် အမည်တည်း။

**စံတော်မူ**

မိမိနောက်ဆုံး ပျံလွန်တော်မူရမည့် ဌာနကို ကြိုတင်သိရှိတော်မူသကဲ့သို့ ဘဝဇာတ်သိမ်းတော်မူသည့်အခါ အခြားချောင်တွေရှိလျက် ၎င်းစံတော်မူ တောင်ပေါ်သို့ ကြွရောက်၍ ပျံလွန်တော်မူပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၃)

## မနောမယဥယျာဉ်

မန္တလေးမြို့သို့ ကြွရောက်သည့်အခါ သီတင်းသုံးရန် တပည့် ဒါယကာ ဒါယိကာမတို့မှ ဆောက်လုပ်လှူဒါန်းထားခြင်းဖြစ်ပါသည်။ ခေတ္တ သီတင်းသုံးသည့် ယာယီစံကျောင်းတော်သာ ဖြစ်ပါသည်။

အရှေ့ပြင် ပန်တျာကျောင်းအနီး၌တည်ရှိပြီး ယခုအခါ မန္တလေးကျောင်းထိုင် ဘုန်းကြီးသင်တန်းကျောင်း ကျောင်းအုပ်ဆရာတော် ဦးကေသဝ (အဂ္ဂမဟာဂန္ထဝါစက ပဏ္ဍိတ)သီတင်းသုံးတော်မူပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၄)

## ယခုလက်ရှိ မနောမယဆရာတော်

ယခုအခါ အဆိုပါ မနောမယချောင်ကြီးတစ်ခုလုံးကို ဗန်းမော် ဆရာတော် အရှင်ကုမာရာဘိဝံသ အဂ္ဂမဟာပဏ္ဍိတ ပါဠိသိရောမဏိ ဝဋံသကာ ( ပရိယတ္တိ) စာပေဒေါက်တာဘွဲ့များ ရရှိတော်မူထားသည့် အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓ သာသနာပြု တက္ကသိုလ် ဒုတိယ ပါမောက္ခချုပ် (သင်ကြား) ဆရာတော်အား အပြီးအပိုင် လှူဒါန်းထားပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၄)

## မနောမယ ဆရာတော်ကြီး၏ ဆုပေး

မနောမယ ဆရာတော်ဘုရားကြီးသည် မိမိထံရောက်လာသည့် ပုဂ္ဂိုလ်တိုင်းအား အယုတ်အလတ် အမြတ်မရွေး အောက်ပါဆုကိုသာ ပေးတော်မူသည်ဟု သိရပါသည်။

'ဣစ္ဆိတံ ပတ္ထိတံ တုယှံ၊ ခိပ္ပမေဝ သမိဇ္ဈတု
သဗ္ဗေ ပူရေန္တု၊ သင်္ကပ္ပါ၊ မဏိဇောတ ရသောယထာ'။

ဣမိနာ ပုညကမ္မေန၊ ဤသို့ လှူဒါန်းပူဇော်ဖူးမြော် မာန်လျှော့ ကန်တော့ရသော ကောင်းမှု ကုသိုလ် စေတနာအဖြာဖြာတို့ကြောင့်၊ ဣစ္ဆိတံ အလိုရှိအပ်သော ပတ္ထိတံ တောင့်တအပ်သော၊ ဝရံ အသက်ရှည် လိုသော ဆုတစ်ပါး၊ အနာရောဂါ ကင်းရှင်းစွာ နေလိုသော ဆုတစ်ပါး၊ သူခိုး ဓားပြ လူလိမ် လူကောက် မင်းစိုးရာဇာ သူပုန် စသော



အန္တရာယ်ဘေးဒဏ် ရန်မာန်ခပ်သိမ်း ကင်းငြိမ်းလိုသော ဆုတစ်ပါး။ ကြံတိုင်းအောင် ဆောင်တိုင်းမြောက်လိုသော ဆုတစ်ပါး၊ နိဗ္ဗာန်ကို လျင်မြန်စွာ ရယူလိုသော ဆုတစ်ပါး၊ ဤငါးပါးသော ဆုထူးဆုမြတ် အပေါင်းသည် တုယှဉ်၊ သင်ဒါယကာ ဒါယိကာမ အပေါင်းတို့အား၊ ခိပ္ပမေဝ၊ လျင်မြန်ဆောစွာ သာလျှင် သမိဇ္ဈတု၊ ပြည့်စုံအောင်မြင်ပါစေသတည်း။

ဒါယကာတို့က ဧဝံ ဟောတု၊ ဧဝံ ဟောတု ဧဝံ ဟောတုဟု သုံးကြိမ်ရွတ်ဆိုစေပါသည်။

ဧဝံ ဟောတု ဤပစ္စေက ဗုဒ္ဓါအရှင်မြတ်တို့ ဆုပေးတော်မူသည့်အတိုင်း တပည့်တော်တို့မှာလည်း ကြံတိုင်းအောင် ဆောင်တိုင်းမြောက်ပါစေသော်။

အရှယ်တော်ကြီး၍ အိုမင်းလာသည့်အခါ အတိုကောက်အားဖြင့် အလိုရှိတိုင်း ကြံစည်တိုင်း ရေကန်အသင့် ကြာအသင့် ဖြစ်ကြစေဟုသာ ပေးတော်မူပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၄-၅၅)

၁၈၉၆ အေဒီ ၁၈၉၆ ခု (၁၂၅၈ခုနှစ်) ရဟန်း ၁၅ ဝါ အရ ဂန္ထဓူရ အလုပ်ကို စွန့်လွှတ်၍ ဝိပဿနာဓူရအလုပ် စတင်အားထုတ်တော်မူသည်မှစ၍ ပျံလွန်တော်မူသည့်တိုင် တိစိဝရိက်ဓူတင် ဆောင်တော်မူပါသည်။

၁၉၅၈ ဆရာတော်ကြီးသည် သက်တော် ၈၁၊ ဝါတော် ၆၀ ဝါရ အေဒီ ၁၉၅၈ ခု၊ ဒီဇင်ဘာလ ၂၀ ရက်၊ စနေနေ့ (၁၃၂၀ ခု နတ်တော်လဆန်း ၁၁ ရက်) ညနေ ၄ နာရီ ၁၅ မိနစ် အချိန် စံတော်မူ တောင်ပေါ်၌ သင်္ခတဇာတ်သိမ်း၍ ချုပ်ငြိမ်းပျံလွန်တော်မူပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၄၉-၅၀)

**အသစ်အသစ်ရလာတိုင်း အဟောင်းကို စွန့်ပါသည်။ ပျံလွန်တော်မူသည့်အခါ လဲစရာ သင်္ကန်းပင်မရှိပါ။ ခေါင်းအုံး စောင် ခြင်ထောင် လုံးဝမထားပါ။**

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၅၀)

(ကျမ်းကိုး၊ သမားတော်ကြီး ဦးညဏ်ထွန်း၊ ဗုဒ္ဓ၏ ပထမဦးစကားတော်နှင့် အဋ္ဌမပန်းတိုင် ၂၀၀၄ ၊ ဇန်နဝါရီလ၊ အဲဗားဂရင်း ပုံနှိပ်တိုက်၊ ရန်ကုန်၊ စာ ၄၉၊

၎င်းကျမ်းကို ပြုစုသော ဆရာကြီး ဦးညဏ်ထွန်းသည် ဘိုကလေးမြို့ သီရိမင်္ဂလာ စံကျောင်းနှင့် မင်းကွန်း တောင်ရိုး မနောမယချောင်တို့၌ ကျောင်းထိုင်အဖြစ် တာဝန်ယူ၍ စာပေကျမ်းဂန်များ ပို့ချပေးနေရာမှ ရဟန်း ၁၈ ဝါအရ လူ အဖြစ်သို့ ပြောင်းလဲခဲ့ပါသည်။ ယခု လက်ရှိအားဖြင့် ဆရာကြီး ဦးညဏ်ထွန်း အငြိမ်းစား ဒီယဘာဏက မွှာစရိယ ပါဠိပါရဂူ၊ ပြည်လုံးချမ်းသာ ဆေးကုဌာန၊ ၈၃ လမ်း၊ ၁၈×၁၉ လမ်းကြား၊ မေယဂီရိရပ်၊ အောင်မြေသာစံ မြို့နယ်၊ မန္တလေးမြို့တွင် နေထိုင်လျက် ရှိပါသည်။ ၎င်းဆရာကြီး သည် ဒီယဘာဏက (ပိဋကတစ်ပုံဆောင်) သာသနဓဇသိရီပဝရ မွှာစရိယ သာသနဓဇ မွှာစရိယ ဝိနယ ပါဠိပါရဂူ ပရိယတ္တိ သာသနပါလ ပထမကျော် ဖြစ်ပါသည်။ )

၇ ရက်မျှဖြင့် ရဟန်းကိစ္စပြီးသွားခဲ့သော

# ရဟန္တာ ဦးမဏိသာရ

**အေဒီ (ဖွားသက္ကရာဇ်မသိပါ) – ၁၉၃၇ ပရိနိဗ္ဗာန်ပြု ( – ၁၂၉၈)**





၇ ရက်မျှဖြင့် ရဟန်းကိစ္စပြီးသွားသည်ဟူသော သတင်းကို ကြားသိရသောအခါ လွန်စွာ ကြည်ညိုဖွယ်ရာ အားကျဖွယ်ရာဖြစ်ပါသည်။ ထိုဆရာတော်ကြီး၏ ဘွဲ့တော်မှာ ဦးမဏိသာရဖြစ်ကြောင်း သိရပါသည်။ ရှမ်းပြည်နယ်၌ စွန်းလွန်း ဥပနိဿယ ပဋိပတ္တိသာသနာ မျိုးစေ့ချတော်မူခဲ့သော ဆရာတော်ကြီးဖြစ်ကြောင်း သိရပါသည်။

၁၉၃၆ ထိုဆရာတော်ကြီးသည် အေဒီ ၁၉၃၆ ခု၊ ၁၂၉၈ ခုနှစ်တွင် မြင်းခြံသို့ပြန်၍ ထိုနှစ်ဝါကို မြင်းခြံ၌ပင် ဝါကပ်တော်မူသည်ဟုသိရပါသည်။ ထို ၁၂၉၈ ခုနှစ် ဝါတွင်းကာလ တော်သလင်းလ၌ပင် ပရိနိဗ္ဗာန်ပြုတော်မူသွားကြောင်း သိရှိရပါသည်။ အရိုးဓာတ်တော်ကို စွန်းလွန်းဂူကျောင်းစေတီအတွင်း၌ ဌာပနာထားကြောင်း သိရှိရပါသည်။ ၎င်းနောက် ရှမ်းပြည်နယ်သို့ ပင့်ဆောင်ပူဇော်ကြကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ စာ ၅၆၁)

## မယားခုနစ်ယောက်ယူခဲ့သည်

ဦးမဏိသာရကား လူဝတ်ကြောင်ဘဝက အလွန်ဆိုးပေ မိုက်ကန်းသူဖြစ်သည်။ သပြေပင်ရွာ ရပ်ကွက်အုပ်သူဌေးကြီးသား လူအမည် ဦးမြမောင်၊ လှည်းအငှားလိုက်စား၏။ မင်းစေလည်းလုပ်ဖူး၏။ မယားခုနစ်ယောက်ယူသည်။ အလွန်လည်းနှိပ်စက်ခဲ့၏။ မိမိဇနီးများနှင့် သံသယမကင်း သူများကိုလည်း အသက်ချမ်းသာမပေး။ နောက် သံဝေဂရ၍ ဆရာတော်ထံ လာရောက်ကာ မောင်ရင်ပေါ်ချောင်၌ ရဟန်းပြုလျက် တရားအားထုတ်ခဲ့သည်။ ၇ ရက်မျှဖြင့် ရဟန်းကိစ္စပြီးသွားသူဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၆၀)

## ၁ ရက်ခြား၍ ရဟန္တာဖြစ်

၁၉၃၃ အေဒီ ၁၉၃၃ ခု၊ မတ်လ ၅ ရက်နေ့ တနင်္ဂနွေနေ့ (၁၂၉၄ ခုနှစ် တပေါင်းလဆန်း ၁၀ ရက်) ၁၂ရက်၊ ၁၄ ရက်၊ လပြည့်ကျော် ၁ ရက် အားဖြင့် ၁ ရက်စီခြားကွာ၍ ရဟန္တာဖြစ်ကြောင်း ဆရာတော်ကိုယ်တိုင် ဟောကြားခဲ့ဖူး၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၆၀)

ထိုအချက်အလက်ကို ထောက်ထား၍ အောက်ပါအတိုင်းသိရှိရပါသည်။

၁၉၃၃ ၁။ အေဒီ ၁၉၃၃ ခု၊ မတ်လ ၅ ရက်နေ့ တနင်္ဂနွေနေ့ (၁၂၉၄ ခုနှစ် တပေါင်းလဆန်း ၁၀ ရက်)တွင် ပဌမအကြိမ် နိဗ္ဗာန်ရောက်၏။

၁၉၃၃ ၂။ အေဒီ ၁၉၃၃ ခု၊ မတ်လ ၇ ရက်၊ အင်္ဂါနေ့ (၁၂၉၄ ခုနှစ် တပေါင်းလဆန်း ၁၂ ရက် ဒုတိယအကြိမ် နိဗ္ဗာန်ရောက်၏။

၁၉၃၃ ၃။ အေဒီ ၁၉၃၃ ခု၊ မတ်လ ၉ ရက်၊ ကြာသပတေးနေ့၊ ၁၂၉၄ ခုနှစ် တပေါင်းလဆန်း ၁၄ ရက် တတိယအကြိမ် နိဗ္ဗာန်ရောက်၏။

၄။ အေဒီ ၁၉၃၃ ခု၊ မတ်လ ၁၁ ရက်၊ စနေ့ (၁၂၉၄ ခုနှစ် တပေါင်းလပြည့်ကျော် ၁ ရက်) စတုတ္ထအကြိမ် နိဗ္ဗာန်ရောက်၏။

## နွားများကို မီးရှို့၍ သတ်ခြင်း

ဦးမဏိသာရသည် ဦးမြမောင်ဘဝနှင့် လူဖြစ်စဉ်က အလွန်ဇာရာ ရက်စက်ကြမ်းကြုတ်သောသူဖြစ်ကြောင်း သိရပါသည်။ တစ်ရံရောအခါက မိမိ၏နွားများကိုပင် ကောက်ရိုးများစုပုံပြီး



မီးရှို့သတ်ဖြတ်ခဲ့ဖူးကြောင်းသိရှိရပါသည်။

ဦးမဏိသာရ လူဖြစ်စဉ်က နွားလှည်းမောင်းရာ ချောင်းအတက်၌ ဝန်နှင့် အားမမျှ၍ နွားမှာ မရုန်းနိုင်ဘဲရှိရာ တအားလွှဲ၍ရိုက်၏။ ရိုက်သော်လည်း မရုန်းနိုင်သဖြင့် နွားမှာ ထိုနေရာမှာပင် လဲကျသွားသည်။ အားကုန်ရိုက်၍ ထစေသော်လည်းမရ။ ထိုအခါ ကောက်ရိုးများ နွားပေါ်စုပုံပြီး မီးဖြင့်ရှို့တိုက်လိုက်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၆၀)

ဦးမြမောင်ဘဝနှင့် လူဖြစ်စဉ် အချိန်အခါက ဤသို့ ရက်စက်ဖူးသည် ဆိုသည်ကို ဆင်ခြင်တော်မူ၍ ပြန်လည်မိန့်ကြားသဖြင့် သိရခြင်းဖြစ်ပါသည်။ ဦးမြမောင်သည် ဦးမဏိသာရဘဝဖြင့် ရဟန္တာအရှင်မြတ်ကြီး ဖြစ်တော်မူသောအခါ ကိုယ်က လုပ်ခဲ့မိတာကိုး သူ့ကြွေးရှိရင် ဆပ်လိုက်ပေါ့ဟူ၍ မြင်းခြံ စွန်းလွန်းဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် မိန့်ကြားဖူးကြောင်းသိရပါသည်။ ထိုအချက်ကို ဤသို့ သိရပါသည်။

၁၉၃၆ အေဒီ ၁၉၃၆ ခု၊ ဧပြီလ ၁၉ ရက်၊ တနင်္ဂနွေနေ့၊ (၁၂၉၈ ခုနှစ် တန်ခူးလပြည့်ကျော် ၁၄ ရက်) သန်းခေါင်ကျော်အချိန်၊ မှောင်နှင့်မည်းမည်း စွန်းလွန်း ဂူတစ်ကျောင်းလုံး တိတ်ဆိတ်ငြိမ်သက်နေ၏။

ရဟန်း၊ ယောဂီ၊ လူယောဂီများ မိမိတို့ ဂူကျောင်းအသီးသီးသို့ ဝင်ကာ တရားရှုမှတ်၍ ကောင်းတုန်းအချိန်ဖြစ်၏။ ပတ်ဝန်းကျင်မှ အသံဗလံများလည်း တိတ်ဆိတ်စဖြစ်သည်။ ထိုအခိုက် ဆရာတော်ကျောင်းအနီးမှ စည်တီးသံ၊ အုန်းမောင်းခေါက်သံ၊ ကုလားတက်သံများ ပွက်ပွက်ရိုက်ဆူညံသွား၏။ ယောဂီများ အထိတ်အလန့်ဖြစ်ကာ ဂူကျောင်းအသီးသီးမှ ပြေးထွက်စုရုံးလာကြသည်။

ယောဂီ တစ်ပါး တရားဝင်နေသော ဂူတစ်ခုမှ မီးများတောက်လောင်နေသည်ကို တွေ့ကြရ၏။ အားလုံးဝိုင်း၍ ငြိမ်းသတ်ကြသည်။ ဂူထဲ၌ရှိသော ကိုယ်တော်အား ပွေ့ချီ၍ထုတ်လာကြ၏။ တစ်ကိုယ်လုံး ကြိုးဖြင့်တုပ်ကာ ပါးစပ်၌ အဝတ်စုတ်များဆို့ပိတ်၍ မီးတိုက် မီးရှို့သတ်ခြင်းဖြစ်သည်။ မီးအပူရှိန် ဟပ်ခံရသည်မှအပ ကိုယ်၌လောင်ကျွမ်းခြင်းမရှိ။ တစ်စုံတစ်ရာ အနာတရ မဖြစ်။ ထိုအရှင်ကား ဝင့်ကြီးလှသော ရဟန္တာဦးမဏိသာရဖြစ်၏။

ဦးမဏိသာရသည် ၁၁ နာရီခွဲလောက်က ကုဋီသို့အကြွ လူဆိုးများက ကြိုးနှင့်တုပ်၍ ဂူပိတ်မီးရှို့ သတ်ခံရခြင်းဖြစ်သည်။ ထိုသို့ ခံရစဉ် နှုတ်က အော်၍မရသဖြင့် ဆရာတော်အား စိတ်ဖြင့်သာ လျှောက်ထားကာ သမာပတ် ဝင်စားနေခြင်းဖြစ်၏။ ထိုအကြောင်းကို ဆရာတော် ကြားသိတော်မူ၍ စည်၊ အုန်းမောင်းတို့ကို အတီးခိုင်းခြင်းဖြစ်သည်။ ဆရာတော်က ဦးပဥ္စင်း သူ့ကြွေးရှိရင် ဆပ်လိုက်ပေါ့၊ သည်းခံပြီးသာနေ၊ ကိုယ်ကလုပ်ခဲ့မိပြီဟာကိုးဟု မိန့်တော်မူ၏။ ဦးမဏိသာရလည်း မိမိဘဝကို သိပြီးဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၅၉)

ဆရာကြီး ဦးငွေးလှိုင် ရေးသကဲ့သို့ပင် ဦးမဏိသာရသည် ဝင့်ကြီးလှသော ရဟန္တာဖြစ်ကြောင်း အံ့ဖွယ်လေ့လာတွေ့ရှိရပါသည်။ အောက်ပါဖြစ်ရပ်မှန်များကိုကြည့်ပါဦး။



## ဓားဖြင့် ခုတ်သတ်ခြင်း

မနာလိုသူများက ဦးမဏိသာရအား ဝိုင်းချုပ်၍ ဓားဖြင့် ခုတ်သတ်ကြပြန်သည်။ သည်းခံ၍ သမာပတ် ဝင်စားနေရာ မြက်ရှရာမျှသာ ရှိသည်ဟုဆို၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၆၀)

ဎင်းအပြင် ဤသို့သော လုပ်ကြံခံရမှုမျိုးကို နောက်တစ်ကြိမ်လည်း တွေ့ရှိရပြန်ပါသည် ကြည့်ပါ။

## ဂူပိတ်၍ မီးရှို့ခြင်း

ဆီမီးကန်ရွာ၌ တစ်ဝါဆိုစဉ်ကလည်း ဂူပိတ်၍ မီးရှို့ခံရပြန်သည်။ တိုက်အုပ်ဆရာတော် ဦးသောဘနက သွား၍ပင့်ခေါ်ထားရ၏ဟု သိရပါသည်။

ထိုသို့သော ဖြစ်ရပ်များ ဖြစ်ပြီးသည့်နောက် ရဟန္တာအရှင်မြတ်ကြီး ဦးမဏိသာရသည် ထိုနှစ်ကဆုန်လပြည့်နေ့၌ ရှမ်းပြည်နယ်တောင်ပိုင်း၌ ပဋိပတ္တိ သာသနာပြုရန် ပင့်သွားကြသည်ဟု သိရပါသည်။ ရဟန္တာ အရှင်မြတ်ကြီး ဦးမဏိသာရ၏ အမြင်သန်ပုံကို မှတ်တမ်းတွေ့ရပါသည်။

ရှမ်းပြည်နယ်တောင်ပိုင်း၌ သီတင်းသုံးခိုက်မှာပင် မြင်းခြံ စွန်းလွန်းဂူကျောင်းတိုက်အတွင်း မနာလိုသူများက လောကီ အစီအရင် အတိုက်အခိုက် အင်းများ မြှုပ်နှံ၍ သာသနာ ဖျက်နေကြသည်ကို မြင်တော်မူသဖြင့် မြင်းခြံသို့လှမ်း၍ အကြောင်းကြားရာ ဦးမဏိသာရ အမိန့်ရှိသည့်အတိုင်း အတိအကျတွေ့ရှိကြရ၏။ ရှင်းလင်းသုတ်သင်ပစ်ကြရလေသည်။ ဦးမဏိသာရကား ဤမျှအမြင်သန်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၆၀)

ရဟန္တာအရှင်မြတ်ကြီး ဦးမဏိသာရသည် ၇ ရက်မျှဖြင့် ရဟန်းကိစ္စ ပြီးသွားပြီဟု သိရသဖြင့် သာသနာ့သမိုင်းတွင် ရာဇဝင် စာတင်လောက်ပါပေသည်ဟု ဆိုကြပါသည်။ တစ်ရက်စီ ကွာခြား၍ ရဟန္တာဖြစ်ကြောင်းကို ဆရာတော်ကိုယ်တိုင်ပင်လျှင် မိန့်တော်မူခဲ့ကြောင်းသိရပါသည်။

၁၉၃၆ ထိုဆရာတော်ကြီးသည် အေဒီ ၁၉၃၆ ခု၊ ၁၂၉၈ ခုနှစ်တွင် မြင်းခြံသို့ ပြန်၍ ထိုနှစ်ဝါကို မြင်းခြံ၌ပင် ဝါကပ်တော်မူသည်ဟု သိရပါသည်။ ထို ၁၂၉၈ ခုနှစ် ဝါတွင်းကာလ တော်သလင်းလ၌ပင် ပရိနိဗ္ဗာန်ပြုတော်မူသွားကြောင်း သိရှိရပါသည်။ အရိုးဓာတ်တော်ကို စွန်းလွန်းဂူကျောင်းစေတီအတွင်း၌ ဌာပနာထားကြောင်း သိရှိရပါသည်။ ဎင်းနောက် ရှမ်းပြည်နယ်သို့ ပင့်ဆောင်ပူဇော်ကြကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ စာ ၅၆၁)

**ပရိနိဗ္ဗာန်ပြုသောအခါ ဓာတ်တော်များ တဖွားဖွားကျတော်မူပါသည်။ ထိုဓာတ်တော်များကို တည်ထားကိုးကွယ်ကြကြောင်း သိရှိရပါသည်။**

(ကျမ်းကိုး၊၁။ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ ခု၊ နဝမအကြိမ် ပုံနှိပ်ခြင်း၊ စာ ၅၅၉ - ၅၆၃) ၂။ အာနာပါန အားထုတ်နည်း စွန်းလွန်း ဥပနိဿရည်း ကျမ်းပြု ဆရာတော် ဦးသာသနဝိသုဒ္ဓိ အရှင်မြတ်အား အသက် ၈၇ ရှိ စပ်ခွန်ဆက်က လျှောက်ထားချက်၊ ယင်း စာ - ၅၆၀)

ကန္တီရွှေသိမ်တော် တောရ ဆရာတော်

# ဦးသောဘိတ

အေဒီ ၁၈၈၀ – ၁၉၆၆ ( ၁၂၄၁ – ၁၃၂၈ )



တော်ဝင်ဦး



ကန္နီဆရာတော်ဟုခေါ်သော ဆရာတော်ဘုရားကြီးကို ကန္နီမြို့ ရွှေသိမ်တော်တောရဆရာတော်ကြီးဟုလည်းခေါ်ကြပါသည်။ ထိုဆရာတော်ကြီး၏ ဇာတိမှာ ကန္နီမြို့ အနောက်တောင်ရှိ ကမ်းဖြူရွာဖြစ်၏။

၁၈၈၀ ကမ်းဖြူရွာတွင် ကျောင်းဒကာကြီး ဦးသာနုဟူ၍ရှိ၏။ ကျောင်းအမကြီး ဒေါ်ကောင်းဟူ၍ရှိ၏။ ထိုမိဘနှစ်ပါးမှ ကန္နီဆရာတော်လောင်းလျာကို အေဒီ ၁၈၈၀ ခု၊ ဖေဖော်ဝါရီ ၂၇ ရက်၊ (၁၂၄၁ ခုနှစ်၊ တပေါင်း လပြည့်ကျော် ၄ ရက်) သောကြာနေ့ ညဦး ၄ ချက် မတီးမီ မီးရှူးသန့်စင်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ စာ ၅၇၇ )

## အာရုံဆောင်

ကန္နီဆရာတော်သည် ငယ်စဉ်ကတည်းက ဉာဏ်အလွန်ထက်၏ဟု ဆိုကြပါသည်။ သဂြိုဟ် ၉ ပိုင်းကို ၉ ရက်နှင့် အာဂုံရကြောင်းသိရပါသည်။ ရဟန်း ၄ ဝါ လောက်မှစ၍ သင်ရိုး ပိဋကနှင့်တကွ နိကာယ်ငါးရပ်ကို အာဂုံဆောင်နိုင်ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၇၆)

## ကြားရုံနှင့် အလွတ်ရွတ်နိုင်

ကန္နီဆရာတော် လောင်းလျာ ၁၀ နှစ်သားအရွယ်က သဂြိုဟ် ၉ ပိုင်းကို ပါဠိရော အနက်ပါ ကိုးရက်နှင့်အာဂုံရ၏။ ထိုမျှလောက် ဉာဏ်ထိုင်းရမည်လားဟု မယ်တော် ဒေါ်ကောင်းက ညည်းတွားခြင်းဖြစ်သည်။ မယ်တော်ကြီးက စာကို ရှေ့ကရွတ်ပြသွားလျှင် ကြားရုံမျှဖြင့် နောက်ကလိုက်၍ အလွတ်ပြန်ပြောနိုင်၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၇၆)

ကန္နီဆရာတော်က ပဋိပတ်တွင် နာမည်ကြီးသလို ပရိယတ်တွင် ပို၍ထူးချွန်နေသည်ကိုတွေ့ရ၏။

## ရဟန်းလေးဝါမှာ ပိဋကတ်သုံးပုံ အာဂုံဆောင်

ရဟန်းလေးဝါလောက်မှစ၍ သင်ရိုးပိဋကတ်မျှမက နိကာယ်ငါးရပ်ကိုပင် အာဂုံဆောင်နိုင်သော အာဇာနည်ယောကျ်ားဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၇၆ )

ကန္နီဆရာတော်၏ ဆရာတစ်ပါးမှာ လက်ပံဆရာတော်ဟူ၍သိရပါသည်။ လက်ပံဆရာတော်ထံ နည်းခံခဲ့ပါသည်ဟုဆိုပါသည်။

ငါ့ရှင်၊ ဤယခု ဆရာတို့ ပွားများနည်းကို ယောဂီအစဉ်အဆက် ဝဋ်မှထွက်မြောက်ရန် ပါရဂူအမည်တပ်၍ ကျမ်းကြီးတစ်စောင် ရေးရစ်ပါဟု အတန်တန် တာဝန်ပေးတော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၇၇ )

ကန္နီဆရာတော်၏ ဆရာတစ်ပါးမှာ ဘုန်းတော်ကြီး ဦးသာရွှန်းဖြစ်လေသည်။ ဦးသာရွှန်းသည် သက်တော် ၁၀၀ ရှည်သော ရဟန္တာကြီး ဦးကဝိန္ဒ ဖြစ်လေသည်။

## ရဟန္တာ ဦးသာရှန်း၏ တပည့်ဖြစ်ခြင်း



လက်ပံတောရမှာအပြန် ဘုတလင်မှ ကန္တီသို့အသွား ညောင်ကန်ရွာအနီးတောတွင်း၌ လှည့်လည်သီတင်းသုံးနေသော ဘုန်းတော်ကြီးဦးသာရှန်းထံ ဝင်ရောက်နည်းခံသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၇၈ )

၎င်းအပြင် ကန္တီဆရာတော်၏ ဆရာတစ်ပါးမှာ မန်လည်ဆရာတော်ဘုရားကြီး ဖြစ်လေသည်။ ထိုမန်လည်ဆရာတော် ဘုရားကြီးမှာ အထက်မန်လည် အောက်လယ်တီ တောင်ပေါ်မှာ ရသေ့ကြီးဦးခန္တီဟု တဘောင်အရ အလွန်ကျော်စောတော်မူသော မန်လည်ဆရာတော်ဘုရားကြီး ဖြစ်လေသည်။ ထိုမန်လည်ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်မှာ ယနေ့တိုင် ဖူးမြော်နိုင်သေးသည်ဟု သိရပါသည်။ ထိုဆရာတော်ကြီးထံမှာလည်း ကန္တီဆရာတော်သည် နည်းခံခဲ့လေသည်ဟု သိရပါသည်။

## မန်လည်ဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်ခဲ့ခြင်း

ဆရာတော် လောင်းလျာသည် မန်လည်ဆရာတော် ဘုရားကြီးထံ၌လည်း ပညာသင်ကြားဖူးရာ တစ်နေ့သောအခါ ကျောင်းရေစက်ချပွဲတစ်ခုတွင် ဆရာတော်ကြီးကခိုင်း၍ ရေစက်ချရရာ ပြီးလျှင် မောင်ပဥ္စင်းလာဦးဟုခေါ်၍ လက်ကိုဆွဲကိုင်လှုပ်ပြီး ဒီကတုံးမှ ဒီကတုံးဟု ချီးကျူးတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၇၈ )

ကန္တီဆရာတော်ကြီး၏ သဘောသဘာဝကိုလည်းကောင်း၊ မေတ္တာ ကရုဏာတော်ကိုလည်းကောင်း၊ ကျင့်စဉ်ကိုလည်းကောင်း အောက်ပါအချက်အလက်များအရလည်း တစေ့တစောင်း အားရကြည်ညိုနိုင်ပါသည်။

## မေတ္တာ ကရုဏာတော်

ဆရာတော်သည် ရင်းနှီးသော ဒကာများ ဆွမ်းအလှူပင့်လျှင် ကျေးငှက် တိရစ္ဆာန်များ၊ ခွေးများ၊ ပုရွက်ဆိတ်များကိုပါ တွင်းရှာ၍ ကျွေးမွေးရန် အမိန့်ရှိသည်။ ကျောင်းတွင်နေ့စဉ် ကျွေးမွေးရ၏။ ထမင်းလျက်ရှိလျှင် ပုရွက်ဆိတ်တွင်းရှာ၍ ကျွေးခိုင်းသည်။ ခွေးစာမကျန်လျှင် ဆန်ကို ဆီခပ်ပြီး ကျိုချက်ကျွေးရ၏။ ကြွက်များကိုလည်း ကျွေးရသည်။ နွားလေ နွားလွှင့်များအား ကောက်ရိုးဝယ်ကျွေးခိုင်း၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၈၁)

ဆရာတော်၏ ဆုံးမစကားကိုလည်း အောက်ပါအတိုင်း လေ့လာမှတ်သားရပါသည်။

အာဂန္တုလာလျှင် သက်နီးစသည့် အပိုအလျှံပေးလှူလေ့ရှိ၏။ ပစ္စည်းယူပေးရသော ကိုရင်ပဥ္စင်းများအား 'ကြားထဲက မစွဲရစိတ်မထားကြနဲ့ သာဓုမှ မခေါ်နိုင်တဲ့ဘဝမျိုး ရောက်တတ်တယ်'ဟု ဆုံးမသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၈၁)

ကန္တီဆရာတော်၏ ဆီမီးပူဇော်ပုံမှာလည်း လွန်စွာကြည်ညိုစရာကောင်းပါသည်။ အောက်ပါစာသားကို ဖတ်ကြည့်ပါ။

ဘုရားဝတ်တက်၊ ဝတ်ကပ်လေးစားမှုကြိုက်၏။ ဆရာတော်ကိုယ်တိုင် မိမိနေရာမှ အရပ်လေးမျက်နှာရှိ ရန်ကုန် ရွှေတိဂုံ၊ သီဟိုဠ်မဟာစေတီစသော ဘုရားများအား စုံအောင် ဆီမီးပူဇော် ရှိခိုးပြီးမှ ကျိန်းသည်။ တောင်ပေါ်၊ မြို့ပေါ်ရှိ ဘုရားများကိုလည်း အားလုံး ရည်မှန်း၍ ဆီမီးပူဇော်ရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၈၁)



၁၉၂၃ ကန္နီဆရာတော်သည် သက်တော် ၄၄ နှစ်အရွယ်တွင် ယောဂီပါရဂူကျမ်းကို ပြုစုတော်မူ၏။ ထိုအခါ အေဒီ ၁၉၂၃ ခု (၁၂၈၅ ခုနှစ်)ဖြစ်လေသည်။

## ပရက္ကမညီနောင်တို့၏ ဆရာဖြစ်ခဲ့ခြင်း

ပရက္ကမညီနောင် ဆရာတော်နှစ်ပါးတို့သည် ကန္နီဆရာတော်ဘုရားကြီးထံတော်၌ အချိန်ကို အချည်းအနှီးဖြုန်းတီးမပစ်ကြဘဲ၊ ဆရာတော်ဘုရားကြီး၏ နည်းနာနယ အတိုင်း အချိန်ပြည့် အားထုတ်ကြ၍လည်းကောင်း၊ ဩဝါဒ နည်းနာနယများကို စိတ်ဖြင့်လည်းကောင်း၊ စာအုပ်စာတမ်းဖြင့်လည်းကောင်း မှတ်သားထားကြလေသည်ဟု သိရပါသည်။

၁၉၄၉ ထို အေဒီ ၁၉၄၉ ခု (၁၃၁၀ ခုနှစ်)က အနောက်ပရက္ကမဆရာတော်၏ ကိုယ်တိုင်လက်ရေးဖြင့် မှတ်သားထားသည့် စာအုပ်များ အမှတ်စဉ် ၁ မှ ၈ အထိ ယခုတိုင်ရှိ၏ဟု သိရပါသည်။

ယင်းသို့ မှတ်သားထားသော နည်းနာနယများကိုလည်း ကျေးဇူးရှင် ကန္နီဆရာတော်ဘုရားကြီးက မပျောက်ပျက်စေရန် ကျမ်းစာအုပ်ဖြစ်အောင် ရေးသားအားထုတ်ရမည်ဟု အမိန့်တော်ရှိကြောင်းကို ဘာဝနာပါရဂူကျမ်းနိဒါန်း၌၊ အနောက် ပရက္ကမ ဆရာတော် ရေးသားထားသည်ကို ဤသို့တွေ့ရပါသည်။

ထိုကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီးသည် များသောအားဖြင့် နှုတ်မိန့်မြွက်ကာ ဟောကြားသော တရားမဓမ္မ နည်းနာနယတို့ကို ရေးကူးမှတ်သားစဉ် ထိုကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီးက 'ဝါယာမ - ဝဏ္ဏတို့၊ ဆရာတော်ဟောကြားသမျှ နည်းနာနယတို့ကို တဖျင့်တပါး မလွှင့်ပါးမပျောက်ပျက်စေရန် ကျမ်းစာအုပ်ဖြစ်အောင် ရေးသား အားထုတ်ကြရမည်'ဟု ချီးမြှင့်စေခိုင်းတော်မူသည်ကို ဝန်ခံခဲ့ရလေသည်။ ဤသို့ဖြင့် မှတ်စုမှတ်ရာ ဩဝါဒ အဖြာဖြာတို့ကြောင့် ဘာဝနာ ပါရဂူကျမ်း ဖြစ်ပေါ်လာခဲ့ပေ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ အနောက် ပရက္ကမဆရာတော်၏ ဖြစ်စဉ်နှင့် ကျင့်စဉ်များ၊ စာ ၁၄၆-၁၄၇)

**ကန္နီဆရာတော်သည် သက်တော် ၆၀ ကျော်၍ မျက်စိနှစ်ကွင်း အလင်းမရသောအခါ ပင်လျှင် စာအမိပ္ပာယ်များကို စာမျက်နှာနှင့်တကွ ရှင်းလင်းပြောကြားလေ့ရှိကြောင်း သိရပါသည်။**

(ကျမ်းကိုး၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူး စာ ၅၇၆ )

**စစ်ကိုင်းတောင်ရိုး အရှေ့ပရက္ကမချောင်နှင့် အနောက်ပရက္ကမချောင်၌ ရဟန္တာဟုကျော်ကြားသော အရှင်မြတ်နှစ်ပါးမှာလည်း ဆရာတော်၏ တပည့်များဖြစ်သည်ဟု သိရပါသည်။**

(ကျမ်းကိုး၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူး စာ ၅၈၂ )

ကန္နီဆရာတော်ထံတော်သို့ အရှေ့ပရက္ကမဆရာတော်နှင့် အနောက်ပရက္ကမဆရာတော်တို့ နည်းခံရန် ရောက်တော်မူလာကြောင်းကို အနောက် ပရက္ကမဆရာတော်၏ ဖြစ်စဉ်နှင့် ကျင့်စဉ်များ ကျမ်းတွင် ဖော်ပြသည်ကို လေ့လာတွေ့ရှိရပါသည်။

(ကျမ်းကိုး၊ အနောက် ပရက္ကမဆရာတော်၏ ဖြစ်စဉ်နှင့် ကျင့်စဉ်များ၊ စာ ၁၄၅)

ကန္နီဆရာတော်ဘုရားကြီးသည် သက်တော် ၈၅ ကျော်သောအခါမှာ ကျန်းမာရေး မျှတရုံ ကျိန်းစက်တော်မူကြောင်း အချိန်ရှိသမျှ စာပြန်ခြင်း၊ တရား ရှုမှတ်ခြင်းဖြင့်သာ အချိန်ကုန်စေကြောင်း သိရှိရပါသည်။

ကုသိုလ်ရအောင်နေ၊ ဝိတက်မဝင်စေနှင့်၊ စကားတစ်ခွန်းနှင့် တစ်ခွန်း အနိစ္စမလွတ်စေနှင့်ဟု ဆုံးမလေ့ရှိကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူး စာ ၅၈၂)



ကန်ဆရာတော်ဘုရားကြီးသည် သက်တော် ၈၆ နှစ် ပြည့်တော်မူသောအခါ ပျံလွန်တော်မူကြောင်းသိရှိရပါသည်။

၁၉၆၆-၆၇ ကန်ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၆၆ ခု၊ မတ်လ ၂၂ ရက်၊ အင်္ဂါနေ့ (၁၃၂၈ ခုနှစ်၊ တန်ခူးလဆန်း ၁ ရက်နေ့) နံနက် ၁၁ း ၃၀ အချိန် ပျံလွန်တော်မူရာ အေဒီ ၁၉၆၇ ခု၊ (၁၃၂၉ ခုနှစ်၊ တန်ခူးလပြည့်ကျော်) အန္တိမဈာပန ပူဇော်ပွဲ လုပ်ကြ၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၈၂ )

ကန်ဆရာတော်ဘုရားကြီး၏ အရိုးဓာတ်စေတီကို စစ်ကိုင်းတောင်ရိုးအလယ် ပရက္ကမချောင်၌လည်း တည်ထားကိုးကွယ်သည်ကို ဖူးတွေ့နိုင်ပါသည်ဟု သိရှိရပါသည်။ ထိုအချက်ကို ရှာဖွေသောအခါ အောက်ပါအတိုင်းတွေ့ရှိရပါသည်။

စစ်ကိုင်းတောင်ရိုး၊ အလယ်ပရက္ကမချောင် ကျောင်းနေရာတွင် ရွှေတိဂုံစေတီပုံတည်ထားသည့် ကန်ဆရာတော်ဘုရားကြီး၏ အရိုးအိုးစေတီ ကျောက်စာသည် အောက်ပါအတိုင်းဖြစ်၏။

> မုံရွာခရိုင်၊ ကန်မြို့၊ ကျေးဇူးတော်ရှင် အာနာပါန နယပါရဂူ ရွှေသိမ်တောင် တောရဆရာတော်ဘုရားကြီး၏ အန္တိမဈာပနသာဓုကီဠန ပွဲသဘင်သို့ မိုးကုတ်မြို့ ရှမ်းတောရပ်နေ ဘုရားဒါယိကာမ ဒေါ်အုံးခင် ကြည်ညိုဖူးမြော်ပူဇော်ရန်သွားစဉ်၊ စစ်ကိုင်းတောင်ရိုးဆရာတော်နှင့် တရားအားထုတ်ဖက်ဆရာတော် ကျန်းမာရေးချို့တဲ့ မပြည့်စုံခိုက် ဖြစ်နေသဖြင့်၊ ခြေတော်ဦးခိုက် ရှိခိုးပူဇော် ဖူးမြော်ကန်တော့ရန် မကြွရောက်နိုင်သည့်အတွက်၊ တရားအားထုတ်ဖက် ဆရာတော်ဘုရား ထာဝစဉ်အမြဲ (အရိုးအိုးစေတီ) တည်ထားကိုးကွယ်ပူဇော်ရန် ကျေးဇူးရှင် ဆရာတော်ကြီး၏ အရိုးဓာတ်တော်မြတ်ကို ပင့်ဆောင်ယူခဲ့သည်။
>
> ဓာတ်တော်နှင့်အတူ ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး၏ အရိုးတော်ဓာတ်မြတ်ကို ဌာပနာထားသည်။ ကန်မြို့ ကျေးဇူးတော်ရှင် အာနာပါန နယပါရဂူ ရွှေသိမ်တော်တောရ ဆရာတော်ဘုရားကြီး (အရိုးအိုးစေတီ) မိုးကုတ်မြို့ ရှမ်းတောရပ် ဘုရားဒါယကာ ဦးသိန်းမောင် ဘုရားဒါယိကာမ ဒေါ်အုံးခင်သား မောင်မြင့်သိန်း မောင်တင့်သမီး မခင်ခင်ကြူတို့ကပင် အရိုးအိုးစေတီ ဒါယကာခံ၍ တရားအားထုတ်ဖက်ဆရာတော် တည်ထားကိုးကွယ်သည်။
>
> သက္ကရာဇ် ၁၃၃၁ ခုနှစ်၊ နတ်တော်လဆန်း ၁၅ ရက်နေ့ ပြီးမြောက်သည်။ ထုလုပ်သူ ဦးချစ်ဖို့ မန္တလေး။
>
> (ကျမ်းကိုး၊ အရှင်စာရိန္ဒ ဓမ္မာစရိယ ၊ ပြုစုသော စစ်ကိုင်းတောင် အနောက် ပရက္ကမဆရာတော်၏ ဖြစ်စဉ်နှင့် ကျင့်စဉ်များ၊ စာ ၄၁၆-၄၁၇)

အထက်ပါ အရိုးအိုးကျောက်စာတော်ကို အနောက်ပရက္ကမဆရာတော်ကြီးဖြစ်စဉ် ကျင့်စဉ်များ ကျမ်းတွင် ဖတ်ရှု၍ ရခဲ့ပါသည်။

> (ကျမ်းကိုး၊ (၁) အရှင်စာရိန္ဒ၊ ဓမ္မာစရိယ ပြုစုသော စစ်ကိုင်းတောင် အနောက် ပရက္ကမဆရာတော်၏ ဖြစ်စဉ်နှင့် ကျင့်စဉ်များ၊ စာ ၄၁၆-၄၁၇) (ကျမ်းကိုး၊ (၂) ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ န၀မအကြိမ်၊ ၁၉၉၃ ခု၊ နိုဝင်ဘာလ၊ ဗုဒ္ဓအသံ စာပေ)

တရားထိုင်ရင်း ထိုင်လျက်အနေအထားဖြင့် ပျံလွန်တော်မူ၍

ကျောက်ပန်းတောင်းမြို့နယ် လက်ပံရွာတွင် ရုပ်ကလာပ်တော်ရှိသေးသော

# လက်ပံအိုင် ဆရာတော် ဦးစန္ဒ

ခေဒီ ၁၈၈၂ - ၁၉၅၀ ( ၁၂၄၄ - ၁၃၁၂ )



## လက်ပံအိုင်မှာ ဖြစ်ရပ်ဆန်း



၁၉၅၁ အေဒီ ၁၉၅၁ ခု (၁၃၁၂ ခုနှစ်)တွင် လက်ပံအိုင်ရွာတွင် ထူးဆန်းသော ဖြစ်ရပ်တစ်ခု ဖြစ်ခဲ့ပါသည်။ ထိုနှစ် အေဒီ ၁၉၅၁ ခု၊ ဖေဖော်ဝါရီ ၂၀ ရက်၊ အင်္ဂါနေ့ (တပို့တွဲလဆန်း ၁၄ ရက်နေ့) နံနက် ၉ နာရီ အချိန်တွင် လက်ပံအိုင်ဆရာတော် ဦးစန္ဒသည် ဆန်ပြုတ်ဆွမ်း ဆက်ကပ်လှူဒါန်းခံပြီးနောက် ထုံးစံအတိုင်းပင် တင်ပျဉ်ခွေလျက် တရားမှတ်သည်ဟု ဆိုပါသည်။ ထိုသို့ တရားမှတ်လျက် အနေအထားအတိုင်းပင်လျှင် ထူးဆန်းစွာ ပျံလွန်တော်မူခဲ့သဖြင့် အုတ်အော်ဒေးယျ ဖြစ်ခဲ့ပါသည်။

(ကျမ်းကိုး။စံထွန်းသာ၊ လက်ပံအိုင်မှ မပုပ်မသိုးသော ဆရာတော်၊ နက္ခတ္တရောင်ခြည်၊ ၂၀၀၁ ခု၊ မတ်လ စာ ၅၂)

## တစ်ရက် ကြို၍ စာရေးခဲ့ခြင်း

၁၉၅၁ ထိုနေ့မတိုင်ခင် အေဒီ ၁၉၅၁ ခု၊ ဖေဖော်ဝါရီ ၁၉ ရက်၊ တနင်္လာနေ့ (၁၃၁၂ ခု၊ တပို့တွဲလဆန်း ၁၃ ရက်) နံနက်အချိန်တွင် ဆရာတော်ကြီးသည် လက်ထောက် ဦးပဥ္စင်းကို ခေါ်ယူပြီးလျှင် စာတစ်စောင်ရေးခိုင်းသည်ဟု ဆိုပါသည်။

စာပါ အကြောင်းအရာမှာ လက်ပံအိုင် ကျောင်းတိုက်နှင့် စပ်လျဉ်းသမျှသော ကိစ္စအဝဝကို လက်ထောက် ဦးပဥ္ဇင်း ဦးကေသရအား လွှဲအပ်ပေးကြောင်း ဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၅၂)

## တရားထိုင်ရင်း ထိုင်လျက်အနေအထားဖြင့် ပျံလွန်တော်မူခြင်း

ထိုအချက်ကို ရှင်ပညာ၊ ရှင်တေဇတို့ သုံးပါးဆိုင် အသိအမှတ်ပြုကြရသည်။ အခြားတစ်ဦးကန့်ကွက်ခြင်းမရှိစေရဟုဆိုပြီးလျှင် ဆရာတော်ကြီးကိုယ်တိုင် လက်မှတ်ထိုးသည်ဟုဆိုပါသည်။ ၎င်းနောက် နောက်တစ်ရက်တွင် တရားထိုင်ရင်း ထိုင်လျက် အနေအထားဖြင့် ပျံလွန်တော်မူပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၅၂)

## ရက်ပေါင်း ၉၀ ပူဇော်ခဲ့ခြင်း

ပျံလွန်တော်မူပြီး ၃ ရက်မြောက်သောနေ့တွင် ခွဲစိပ်ရန် စီမံကြပါသည်။ သို့သော် ၇ ရက်တိုင်တိုင် ကြံစည်သော်လည်း မဖြစ်မြောက်ဖြစ်သဖြင့် လက်လျှော့ကာ ကျွန်းခေါင်းတွင် ထည့်သွင်းခဲ့ကြသည်ဟုဆိုပါသည်။ ထို့နောက် ရက်ပေါင်း ၉၀ ကြာအောင် ပူဇော်ထားခဲ့ပါသည်။ သို့သော်လည်း ရုပ်ကလာပ်တော်မှာ ပုပ်သိုးခြင်း မရှိသဖြင့် ကျော်စောသတင်းဖြစ်ခဲ့ပါသည်။ ထိုအခါ ကျောက်ပန်းတောင်းမြို့၊ မြို့မရပ်ကွက်ရှိ ဦးရာဇိန်ကျောင်းတိုက်မှ ရဟန်းရှင်လူများ လာရောက်ကာ ရုပ်ကလာပ်တော်ကို ပင့်ဆောင်ကာ ရက်ပေါင်း ၃၀ မျှ ပူဇော်ကန်တော့ကြခဲ့ပါသေးသည်။

## ရုပ်ကလာပ်တော် မီးမကူးခြင်း

၁၉၅၁ ဤသို့ဖြင့် အေဒီ ၁၉၅၁ ခု ဖေဖော်ဝါရီလ (၁၃၁၃ ခု၊ တပေါင်းလ)တွင် မီးပူဇော်ရန် ပြင်ဆင်ကြပါသည်။ ထိုအခါ ထင်းပုံကြီးသာမီးလောင်၍ ကုန်သွား



ပါသည်။ ရုပ်ကလာပ်တော်မှာ လုံးဝမီးကူးခြင်းမရှိချေ။ အလွန်အံ့ဖွယ်ဖြစ်ပါသည်။

## မှန်ခေါင်းပြင်က ထည့်ကြရ

ဤသို့ဖြင့် ကြံရာမရတော့ဘဲ တစ်ဖန် မှန်ခေါင်းတွင်ထည့်သွင်းလျက် ပူဇော်ကြရပြန်လေသည်။ ထိုနောက် ကုန်းပြင်ထက်တွင် ဂူဗိမာန်ဆောက်လုပ် ပူဇော်ကြပြန်သည်။

## တစ်နှစ်တစ်ကြိမ် သင်္ကန်းလဲ

ထို့နောက် တစ်နှစ်လျှင် တစ်ကြိမ် မွေးနေ့တိုင်း ဆွမ်းကပ်ကြသည် ဆိုပါသည်။ တစ်ပြိုင်တည်းမှာပင် သင်္ကန်းလဲလှယ်ပေးခြင်းကိုလည်း ပြုလုပ်ခဲ့ပါသည်။ ၎င်းအပြင် အညစ်အကြေးများကိုလည်း သန့်စင်ပေးခဲ့သည်ဟုဆိုပါသည်။

## လက်သည်း ခြေသည်းများ ရှည်လာ

သို့သော်လည်း ရုပ်ကလာပ်တော်မှာ ပကတိအတိုင်းကဲ့သို့ဖြစ်၏။ အသားအရေတို့မှာ ဝါဝင်းလျက်ရှိသည်။ အကြောများလည်း ခပ်စိမ်းစိမ်းရှိ၏။ ၎င်းအပြင် ဆံပင်များကလည်းရှည်လာ၏။ ထိုမျှသာမကသေး၊ လက်သည်း ခြေသည်းများမှာ ရှည်လာတတ်ကြောင်း တွေ့ရှိရပါသည်။

ဆရာတော်ကြီးပျံလွန်တော်မူသည်မှာ နှစ်ပေါင်း ၅၀ ကျော်၍ ၆၀ ကျော်သို့ ဝင်ရောက်လာခဲ့ပါသည်။ သို့သော်လည်း ရုပ်ကလာပ်တော်မှာ ကျိုးပဲ့ပျက်ယွင်းခြင်းလည်းမရှိ၊ ဆွေးမြေ့ခြင်းလည်းမရှိချေ။

(ကျမ်းကိုး၊ စံထွန်းသာ၊ ယင်းစာ ၅၁)

## ရှေ့မင်သုတ်သူများကြောင့်

ယခုအခါ ရွှေရောင်တောက်လျက်ရှိရာ သိရှိရသမျှမှာ ကြည်ညိုသူများက ရွှေမင်သုတ်ပြီး ပူဇော်သွားကြောင်းသိရှိရပါသည်။ ရွာသားများကလည်း ရိုးသားသူများဖြစ်ကြသဖြင့် သင့်တော်သည် မသင့်တော်သည်ကို မစဉ်းစားမိခဲ့ကြသဖြင့် ရွှေမင်သုတ်သမားကို မတားခဲ့ချေ။ ထို့ကြောင့် ယခုအခါ မွေးညှင်းဆံပင်များကို မတွေ့မြင်နိုင်တော့ချေ။

(ကျမ်းကိုး၊ ယင်းစာ ၅၁)

## ခြေသည်း လက်သည်း ရှည်မြဲရှည်

ခြေသည်း လက်သည်းများကား ရှည်မြဲရှည်လျက် တွေ့မြင်ရသေးသည်။

လက်ပံအိုင်ရွာ ဂူဗိမာန်မှာ ရွာထိပ်အနောက်မြောက်ဘက်တွင် ရှိ၏။ အလျား ပေ ၂၀၊ အနံ ၁၅ ပေလောက်ရှိပါသည်။ ဖန်ဖြင့်ကာထား၏။ ခိုင်ခံ့သော စံကျောင်းတစ်ခု ဆောက်လုပ်ပူဇော်ရန် ကြိုးစားလျက်ရှိကြကြောင်းသိရပါသည်။ အုတ်တိုက်အတွင်းဝယ် မှန်ခေါင်းဖြင့် အပူဇော်ခံထားသည်ကို သိရှိရပါသည်။

(ကျမ်းကိုး၊ စံထွန်းသာ၊ ယင်းစာ ၅၁)

## လက်ပံအိုင်ရွာ ဘယ်မှာလဲ



လက်ပံအိုင်ရွာမှာ ကြက်မောက်တောင်ဆည်နှင့်နီးသည်ဟု ပြောမှသာ နေရာကို ရိပ်စားမိနိုင်မည်ဖြစ်ပါသည်။ ကျောက်ပန်းတောင်း မိတ္ထီလာ ကားလမ်းကြီးရှိ၏။ ထိုကားလမ်းအတိုင်း သွားလျှင် ၇ မိုင်အကွာတွင် စက်ကုန်းကျေးရွာ ဟူ၍ရှိ၏။ ထိုနေရာမှာ မြောက်ဘက်စူးစူးသို့သွားသော လှည်းလမ်းကြောင်းရှိ၏။ ထိုနေရာမှ ၅ ဖာလုံသွားလျှင် ကြက်မောက်တောင်ဆည်ရှိ၏။ အနောက်ဘက်မှာ တာတမံသို့ရောက်၏။ ထိုတမံတာလမ်းအတိုင်းဆက်သွားရ၏။ သဲပုတ်တောသို့ရောက်၏။ ဆက်သွားရသည်။ အနောက်မြောက်စူးစူး ၂ မိုင် အကွာတွင် လယ်ခွရွာသို့ရောက်၏။ ချောင်းတစ်ဖက်ကမ်း လက်ပံအိုင်ရွာရှိ၏။ ထိုနေရာတွင် ရွာထိပ်၌ ဂူဗိမာန်ရှိ၏။

(ကျမ်းကိုး၊ စံထွန်းသာ၊ ယင်းစာ ၅၀)

## လက်ပံအိုင်ရွာ ရဟန္တာကြီး၏ ဇာတိ

၁၈၈၂ ဆရာတော်ကြီးကို လက်ပံအိုင်ရွာ ရဟန္တာဟု သမုတ်ကြပါသည်။ ဆရာတော်ကြီးသည် ကျောက်ပန်းတောင်းမြို့နယ် လက်ပံအိုင်ရွာဇာတိ ဖြစ်သည်။ အေဒီ ၁၈၈၂ ဇူလိုင် ၂၈ ရက်၊ သောကြာနေ့ (မြန်မာသက္ကရာဇ် ၁၂၄၄ ခု၊ ဝါခေါင်လဆန်း ၁၄ ရက်နေ့) တွင်ဖွားမြင်သည်။ ခမည်းတော် ဦးရွှေဂိုက် ဆိုသူဖြစ်၏။ မယ်တော်မှာ ဒေါ်စိုင်ဖြစ်၏။ ဆရာတော်ကြီး၏ ငယ်နာမည်မှာ မောင်ထွားဖြစ်၏။

မောင်ထွား အသက် ၂၀ ရောက်သောအခါ ဦးသာဇံ ဒေါ်ခနဲ့တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဘောင်သို့ ရောက်ရှိခဲ့လေသည်။ ဘွဲ့အမည်မှာ ဦးစန္ဒဟူ၍ဖြစ်၏။ မောင်ထွားနှင့်ကား နေ့နံမကိုက်ချေ။ ဦးစန္ဒ၏ ဥပဇ္ဈာယ်ဆရာတော်မှာ ဦးသံဝေဇဖြစ်၏။ လက်ပံအိုင်ကျောင်းတိုက်ဆရာတော်ဖြစ်၏။

## တောင်ငူသို့ရောက်

ဆရာတော် ဦးစန္ဒသည် မြန်မာပြည်အနှံ့ ကြွရောက်သီတင်းသုံးရင်း စာဝါများ သင်ယူသည်ဟု ဆိုပါသည်။ တောင်ငူမြို့သို့လည်း ရောက်ခဲ့သေးသည်ဟု သိရပါသည်။ ထိုတောင်ငူတွင် ဇေတဝန်ကျောင်းတိုက်ဟူ၍ရှိ၏။ ထိုကျောင်းတိုက်၌ စာချကိုယ်တော်ဖြစ်ခဲ့သေး၏။

## ညောင်လွန့် ရဟန္တာအရှင်မြတ်ကြီးထံ နည်းခံခြင်း

၁၉၄၅ ထိုနေရာတွင် သီတင်းသုံးရင်း ဆရာတော် ဦးစန္ဒသည် ရဟန္တာဟု ကျော်ကြားသော ညောင်လွန့်ဆရာတော်ဘုရားကြီး၏ ခြေတော်ရင်းသို့ ဆည်းကပ်ပူဇော်ခဲ့လေသည်။ ၎င်းနောက် လက်ပံအိုင်ကျောင်းသို့ ပြန်ကြွလာလေသည်။ ထိုနှစ်သည် အေဒီ ၁၉၄၅ (၁၃၀၆ ခုနှစ်)ဖြစ်၏။ ထိုအချိန်တွင် ဦးစန္ဒသည် သက်တော် ၆၂ နှစ်ရှိလေသည်။

(ကျမ်းကိုး၊ စံထွန်းသာ၊ ယင်းစာ ၅၁)

၁၉၄၆ အေဒီ ၁၉၄၆ (၁၃၀၇ ခုနှစ်)လောက်တွင် မြန်မာပြည်၌ ရောင်စုံသူပုန်များ ကြီးစိုးလျက်ကာလဖြစ်ပါသည်။ ထို့ကြောင့်လည်း နေရာတကာမှာ တိုက်ပွဲများ ရှိနေတတ်လေသည်။



## စစ်အတွင်းက လက်ညှိုးထိုးကာ ပရိတ်ရွတ်ခြင်း ဖြစ်ရပ်ဆန်းတစ်ခု

ထို့ကြောင့်လည်း တစ်နေ့သောအခါ ရဲဘော်ဖြူအုပ်စုနှင့်ရဲဘော်နီ အုပ်စုတို့သည် ရင်ဆိုင်တွေ့ကြလေသည်။ အလယ်ခေါင်တွင် ချောင်းခြားလျက်ရှိသည်။ ထိုအချိန်အခါတွင် ဆရာတော်ဦးစန္ဒသည် ရွာသားများကို စေတီများအကြား၌ ပုန်းအောင်းခိုင်းပါသည်။ ၎င်းနောက် ရွာနှစ်ဖက်စလုံးကို လက်ညှိုးထိုးကာ ပရိတ်တော်များ ရွတ်ဖတ်ပါသည်။

၎င်းနောက် တိတ်ဆိတ်လျက်သာရှိ၏။ ဘာသံမှလည်းမကြားရချေ။ တိုက်ပွဲခေါ်သံလည်းမရှိချေ။ ထို့ကြောင့် အခြေအနေ ဘယ်လိုလဲဟု ချောင်းမြောင်းကြည့်ရှုသောအခါ ရဲဘော်ဖြူ ရဲဘော်နီအုပ်စု နှစ်ခုစလုံးသည် နောက်ကြောင်း ပြန်ဆုတ်သွားကြောင်း သိရှိရပါသည်။ ဤသည်မှာ ဆရာတော် ဦးစန္ဒနှင့် စပ်လျဉ်း၍ ဖြစ်ရပ်ဆန်းတစ်ခုဖြစ်ပါသည်။

(ကျမ်းကိုး။ ယင်းစာ ၅၁)

## စစ်အတွင်းက လက်ညှိုးထိုးကာ ပရိတ်ရွတ်ခြင်း အခြားဖြစ်ရပ်ဆန်းတစ်ခု

အခြားသော ဖြစ်ရပ်တစ်ခုလည်း ရှိပါသေးသည်။ ထိုအချိန်က ဗုံးကြဲလေယာဉ်ပျံများတို့သည် ဗုံးကြဲနေချိန်ဖြစ်ပါသည်။ တောင်ခြေပတ်ဝန်းကျင်တွင် စစ်ဘေးမှ ပြေးလွှားသူတို့ဖြင့် စည်ကားလျက်ရှိပါသည်။ ထိုအချက်ကို အခွင့်အကောင်းယူ၍ လေယာဉ်ပျံများသည် ဗုံးကြဲရန် ဥဩသံပေးလျက် ပျံသန်းလာကြသည်ဟုဆိုပါသည်။ ထိုအခါ ဆရာတော်ဦးစန္ဒသည် လေယာဉ်ပျံများကို လက်ညှိုးထိုးလျက် ပရိတ်တော်များကို ရွတ်ဖတ်ပါသည်။

(ကျမ်းကိုး။ ယင်းစာ ၅၁)

လေယာဉ်ပျံများသည် ဗုံးမချဘဲ အတန်ကြာ လည်ပတ်ပြီးနောက် လာရာလမ်းသို့ ပြန်သွားကြပါသည်။ ဤသည်မှာလည်း အံ့ဖွယ်ဖြစ်ကြောင်း မှတ်မိသမျှဖြစ်ပါသည်။ မှတ်တမ်း မှတ်ရာများ စုံစုံစေ့စေ့ ရှာဖွေမတွေ့ရပါ။

**လက်ပံအိုင်ရွာ ရဟန္တာဟူ၍တား ရပ်ဝေးရပ်နီး ကျော်ကြားလျက်ရှိပါသည်။ ယခုထက်တိုင် ရုပ်ကလာပ်တော်ကြီးတည်ရှိနေသေး၏။ လက်သည်းခြေသည်းများလည်း ရှည်ဆဲပင်ရှိသေး၏။ သွားရောက်ဖူးမြော်နိုင်ပါ၏။**

(ကျမ်းကိုး။ယင်းကျမ်း။ စာ ၄၉ - ၅၃)

ဒုတိယ သိမ်တောင်ဆည်ကြီးတောရ ဆရာတော်

# ဦးဇဝန

အေဒီ ၁၈၈၂ - ၁၉၅၉ ( ၁၂၄၄ - ၁၃၂၁ )



တော်ဝင်မြို့ စာပေတိုက်



ရဟန္တာဟု ကျော်ကြားသော သိမ်တောင်အင်းမကြီး ဆရာတော် ပျံလွန်တော်မူခါနီးတွင် ခုတင်ပေါ်တွင် ပက်လက်လှန်လျက် အာနာပါနကိုသာ တွင်တွင်ကြီး ရှုမှတ်နေဆဲတွင် ဆရာတော်ကြီး၏ ပခုံးအထက် လည်ပင်းပတ်လည်မှာ အလင်းရောင်များ ကွန့်မြူးနေသည်ကို ဖူးတွေ့ကြရလေသည်ဟု သိရပါသည်။ ဆရာတော်ကြီးသည် သက်တော် ၄၆ နှစ် ဝါတော် ၂၆ ဝါမျှဖြင့် ခန္ဓာဝန်ချတော်မူသည်။

ဆရာတော်ကြီး တရားအားထုတ်တော်မူရာ အောင်မြေကျောင်းမှာ မန္တလေးတိုင်း ဝမ်းတွင်းမြို့အတွင်း၌ တည်ရှိပေသည်။ ဝမ်းတွင်းမြို့ပေါ်မှ ၁ မိုင်လောက်အကွာအဝေးတွင်ရှိ၏။ သိမ်တောင်တောရဟုခေါ်၏။ ကေ ၃၀၀ ကျော် ကျယ်ဝန်း၏။ သိမ်တောင်မှာ စိန်တောင်ပေါက်သည်ဟု ကျော်ကြားခဲ့သော နေရာထူးကြီးဖြစ်၏။ ထိုနေရာတွင် တည်ရှိသော အနန္တလောက ရန်ပြေခတ်ပေါင်းစု စေတီတော်ကြီးမှာလည်း အသီတိခာတ်ကိန်းတော်မူသည်ဟု ကျော်ကြားသော စေတီတော်ကြီးဖြစ်၏။

**ပထမ အင်းမကြီး သိမ်တောင်တောရဆရာတော်ဘုရားကြီးသည် လယ်တီဆရာတော်ဘုရားကြီးနှင့် မရှေးမနှောင်းပင်လျှင် ငယ်ငယ်ရွယ်ရွယ်နှင့် အလွန်ကျော်ကြားတော်မူ၏။ ရဟန္တာဟူ၍ ထင်ရှားကျော်ကြားတော်မူခဲ့သော ဆရာတော်ကြီးဖြစ်၏။**

ထိုအင်းမကြီး သိမ်တောင်တောရ ဆရာတော်ကြီး၏ တပည့်ရင်း တစ်ပါးမှာ ဦးဇဝနဖြစ်၏။ နောင်သောအခါ ဒုတိယ သိမ်တောင် ဆည်ကြီးတောရ ဆရာတော်ဟု ကျော်ကြားတော်မူ၏။ ရှေးအခါက သေက္ခတောင် ဦးတိလောကထံတွင် နည်းနာခံခဲ့ဖူး၏။ နောင်သောအခါ အင်းမကြီး သိမ်တောင်ဆရာတော်၏ တပည့်ရင်းတစ်ဦးဖြစ်လာခဲ့လေသည်။

ဒုတိယ သိမ်တောင်ဆည်ကြီးတောရဆရာတော်သည် ပထမ အင်းမကြီး ဆရာတော်၏ လက်ရုံးကြီးတစ်ဆူဖြစ်၏။ လက်ဦး တပည့်ကြီးလည်းဖြစ်၏။

(ကျမ်းကိုး။ မွှာစရိယ ဦးဌေးလှိုင်က ဆိုပါသည်။ စာ ၅၈၄။)

ထိုဆရာတော်ကြီးသည် လယ်တီဆရာတော်ကြီး၏ တရားအမွေအနှစ်ကိုလည်းရခဲ့၏။ သေက္ခတောင်ဆရာတော်၏ တရားအမွေအနှစ်ကိုလည်းရခဲ့၏။ ၎င်းအပြင် ပျော်ဘွယ်ဆရာသက်ကြီး၏ တရားအမွေအနှစ်ကိုလည်းရခဲ့၏ဟု သိရပါသည်။

၁၈၈၂ ဆရာတော်ကြီးကို အေဒီ ၁၈၈၂ ခု ၊ ဇူလိုင်လ ၄ ရက်၊ (၁၂၄၄ ခုနှစ် ဝါဆိုလပြည့်ကျော် ၅ ရက်နေ့)တွင်ဖွား၏။ အင်္ဂါနေ့သားဖြစ်၏။ ဖခင်မှာ ဦးကျော့ဖြစ်၏။ မိခင်မှာ ဒေါ်ကောင်းဖြစ်၏။ ရွှေတွင်းတူး ဆည်ကြီးရွာဇာတိဖြစ်၏။

(ကျမ်းကိုး၊ ယင်းစာ ၅၈၄)

**ထိုရွာသည် မိတ္ထီလာခရိုင် ဝမ်းတွင်းမြို့နယ်၌တည်ရှိ၏။ ထိုရွာအနီးတွင် အနော်ရထာမင်း ဆည်ဖို့ခဲ့သောဆည်ကြီးရှိ၏။ ပို၍ထူးသည်မှာ ထိုရွာကို ကျန်စစ်မင်းကြီးတည်ခဲ့သည်ဟုဆို၏။**

ဆည်ကြီးတောရ ဆိုသည်မှာလည်း ထိုဇာတိရွာကို အကြောင်းပြု၍ ဆိုခြင်းဖြစ်၏။ ထိုရွာတွင် ရှေးအခါက ပုဂံခေတ်က ကျန်စစ်မင်း၏ မိဖုရားတစ်ပါးဖြစ်သော မခင်တန်၏ ဖွားရာဇာတိဖြစ်သည်ဟုဆိုပါသည်။ ထိုမိဖုရားသည် ရွှေဘုံသာစေတီတော်ကို တည်ထားခဲ့၏ဟု ဆရာတော်ကိုယ်တိုင် ရေးသားထားခဲ့ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၅၈၄)

၁၉၅၀ ဆရာတော်ကြီး ပျံလွန်တော်မူခါနီးကာလ အေဒီ ၁၉၅၀ ခု၊ (၁၃၁၂ ခုနှစ်)တွင် အရိယာဝိဇ္ဇာမဂ္ဂအလင်းပြကျမ်းကို ရေးသားခဲ့ကြောင်း သိရပါသည်။ ထိုကျမ်းကို

၁၃၁၂ ခုနှစ်က ပထမအကြိမ် ရိုက်ခဲ့ကြောင်း အေဒီ ၁၉၅၄ ခု (၁၃၁၆ ခုနှစ်)၌ ဒုတိယအကြိမ် ရိုက်ခဲ့ကြောင်းသိရပါသည်။ 

(ကျမ်းကိုး။ စာ ၅၈၄။ )

၁၉၂၄ အေဒီ ၁၉၂၄ ခု (၁၂၈၆ ခုနှစ်)တွင် ဆရာတော်သည် ကိုရင်ကြီး ဖြစ်လာခဲ့၏။ ဘွဲ့တော်မှာ ရှင်ဇဝန ဖြစ်၏။

## သျှောင်ကြီးဗွေနှင့် လူတစ်ယောက်

၁၉၀၂ အသက် ၂၀ ကျော်သည်အထိ မိဘများနှင့် အတူလုပ်ကိုင်စားသောက်၍ နေခဲ့သည်ဟု ဆိုပါသည်။ ၎င်းနောက် မန္တလေးသို့ ရောက်သွားသည်ဟု ဆိုပါသည်။ ထိုစဉ်က သျှောင်ကြီးဗွေနှင့်ပင် ဖြစ်သည်ဟုဆိုပါသည်။ အလွန်ရိုးသားမှန်း သိသဖြင့် မိုးကုတ်က သူဌေးတစ်ယောက်က ခေါ်ယူမွေးစားသည်ဟုဆိုပါသည်။ ကျောက်သံပတ္တမြားများစွာ ပြ၍ ပျော်ရွှင်အောင်ထားခဲ့၏ဟု ဆိုပါသည်။ သို့သော်လည်း မပျော်သဖြင့် ဖခင်ကြီး ဦးကျော့နှင့် ပြန်၍လိုက်သွားသည်ဟုဆိုပါသည်။ သို့နှင့် ရွာသို့ရောက်ခဲ့ရပြန်သည်။ သို့သော်လည်း လူဝတ်နှင့် မပျော်ဟုဆိုပါသည်။

၁၉၀၇ ထို့ကြောင့် နောက်ဆုံးတွင် အင်းမကြီးတောကျောင်းကလေးသို့ ရောက်သွား၏ဟု ဆိုပါသည်။ ထိုလေးစင်တိုင်နှင့် တောကျောင်းကလေးကို ထန်းရွက်မိုးနှင့် တွေ့ရရာ အလွန်နှစ်သက်သည်ဟု ဆိုပါသည်။ ထို့ကြောင့် ထိုကျောင်းတွင် သီတင်းသုံးနေသော အင်းမကြီးဆရာတော်ကြီးထံမှာပင် ကပ္ပိယလုပ်ကာနေခဲ့သည်ဟုဆိုပါသည်။

ထိုနှစ်သည် အေဒီ ၁၉၀၇ ခု (၁၂၆၈ ခု၊ ဝါတွင်း)ကာလဖြစ်၏။ ထိုနှစ် ထိုဝါတွင်းကာလမှာပင် ကိုရင်ကြီးဝတ်၏။ ရှင်ဇဝနဟု အမည်တွင်၏။

(ကျမ်းကိုး၊ ယင်းစာ ၅၈၅)

## ဆရာများ အသားသေ

ဆရာတော်သည် ရဟန်းဖြစ်ပြီးနောက် လယ်တီဆရာတော်ထံ၌လည်းနည်းခံ၏။ သေက္ခတောင် ဦးတိလောကထံ၌လည်းနည်းခံ၏။

(ကျမ်းကိုး၊ ယင်းစာ ၅၈၅)

## လယ်တီဆရာတော်ဘုရားက မောင်ဇဝနဟုခေါ်

၁၉၂၀ အေဒီ ၁၉၂၀ ခု (၁၂၈၂ ခုနှစ်)တွင် သထုံမြို့ ဇင်းကျိုက်တောင်၏ မြောက်ဘက် ကတွန်မိုင်းအတွင်း ချင်းချောင်းသူဌေး ဆောက်လုပ်လှူဒါန်းသော စံကျောင်း၌ လယ်တီဆရာတော်ဘုရားကြီးဝါကပ်၏။ ထိုအခါ ဦးဇဝနလည်း လိုက်သွား၏ဟုဆိုပါသည်။

ဦးဇဝနကို လယ်တီဆရာတော်ဘုရားကြီးက မောင်ဇဝနဟု ခေါ်ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၅၈၆)

၁၉၃၈ အေဒီ ၁၉၃၈ ခု (၁၃၀၀ ပြည့်နှစ်)တွင် ဦးဇဝနသည် ဆည်ကြီးတောရဆရာတော်ဟူ၍ ဖြစ်လာခဲ့ပေသည်။ ထိုအခါ မန္တလေးတောင်ခွင် သာသနာပိုင်ဆရာတော်ဘုရားကြီးထံ သွားကန်တော့၏။ ထိုအခါ တောင်ခွင်သာသနာပိုင် ဆရာတော်ကြီး၏ ပန်ကြားချက်အရ အင်းမကြီးဆရာတော် ညွှန်ပြသည့် အတိုင်းလည်းကောင်း၊ လယ်တီဆရာတော်ညွှန်ပြသည့်အတိုင်းလည်းကောင်း၊ သေက္ခတောင်ဆရာတော် ညွှန်ပြသည့်



အတိုင်းလည်းကောင်း ပြန်လည်ဟောပြရာ တောင်ခွင်သာသနာပိုင် ဆရာတော်ကြီးက အထူးနှစ်သက်ကြောင်း သိရှိရပါသည်။

ဆရာတော်ဘုရားကြီးသည် အကြောင်းအားလျော်စွာ ဗလာစာအုပ်များ၌ ခဲတံဖြင့် ရေးသားမှတ်တမ်းတင်ထားသည်များကိုလည်း ကြိုကြား ကြိုကြား ဖတ်ရှုရရာ မှတ်သားဖွယ်ရာများဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၅၈၉)

သိမ်တောင်ဆည်ကြီးတောရဆရာတော်၏ လက်ရေးမှတ်စုတွင် မှတ်သားချက်များမှာ အရေးပါလှသည်။ အောက်တွင်ဖတ်ကြည့်ပါ။

၁၉၀၆ အေဒီ ၁၉၀၆ ခု၊ ဩဂုတ်လ၊ ၂၅ ရက်၊ စနေနေ့ (၁၂၆၈ ခုနှစ်၊ တော်သလင်းဆန်း ၈ ရက်၊ ရွှေတွင်းတူးကျောင်း ခဏ္ဍသိမ်၌ ပထမ ကမ္မဝါဆရာ မုံတောဂိုဏ်းထောက် ဦးမာလာ၊ ထနောင်းကုန်း ဂိုဏ်းထောက် ဦးဝိသုဒ္ဓ၊ တမာကုန်း သရက်ခြံ ဂိုဏ်းထောက် ဦးတေဇဝံသ သုံးပါးနှင့် ဥပဇ္ဈာယ် ထီးလှိုင်ဂိုဏ်းထောက် ဆရာတော်။ နေ့ နာရီပြန် တစ်ချက်။

၁၂၉၀ ပြည့် ၂၃ ဝါ ရ၊

၁၂၆၈ ခု၊ ဝါတွင်း သာမဏေလုပ်နေရ၊

၁၂၉၄ ၊ ၂၇ ဝါရ။

(ကျမ်းကိုး၊ ယင်းစာ ၅၈၅)

အထက်ပါအတိုင်း တွေ့ရှိရသော ဆရာတော်၏ လက်ရေးနှင့် ကိုယ်တော်တိုင် ရေးထားသည့် မှတ်တမ်းစာကို ထောက်ထား၍ အောက်ပါအတိုင်း တွက်ချက်ယူရပါသည်။

၁၉၀၉ အေဒီ ၁၉၀၉ (၁၂၆၈ ခုနှစ် ဝါတွင်း သာမဏေ လုပ်နေရ) ကြောင်းသိရပါသည်။

၁၉၂၈ အေဒီ ၁၉၂၈ (၁၂၉၀ ပြည့်၊ ၂၃ ဝါရ) ကြောင်းသိရပါသည်။

၁၉၃၃ အေဒီ ၁၉၃၃ (၁၂၉၄။ ၂၇ ဝါရ) ကြောင်းသိရပါသည်။

အထက်ပါ စာကိုထောက်ထား၍ ၁၂၆၈ ခုနှစ်တွင် သာမဏေဖြစ်ကြောင်း သိရ၏။ ၁၂၉၀တွင် ၂၃ ဝါရ၏။ ၁၂၉၄ ခု တွင် ၂၇ ဝါရ ကြောင်း သိရပါသည်။

(ကျမ်းကိုး။ မွှာစရိယဦးဌေးလှိုင်ထံမှတစ်ဆင့် သိရှိရပါသည်။ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ ၊ နဝမအကြိမ် စာ ၅၈၅ )

အောက်ပါ စာသားမှာလည်း ဆရာတော်၏ ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါသည်။ ဖတ်ကြည့်ပါ။

၁၉၄၆ (၁၃၀၈ ခုနှစ် နတ်တော်လပြည့်) တနင်္ဂနွေနေ့ည လငပုပ်ဖမ်းသည်။ အထူး မြန်မာလူမျိုးများကောင်းမည်။

ဇင်းလပြည့်ကျော် ၃ ရက် ဗုဒ္ဓဟူးနေ့ ဘုရားဖြစ်၍ မာရ်ငါးပါး အောင်တော်မူသောနေ့ သံဃာတော် ၃၁ ပါးတို့ကို သံဃာ့ဒါန ဆွမ်းလုပ် ကျွေးပြီးလျှင် ဆည်ကြီးတောရ ရေသိမ်၌ အဋ္ဌာနကံဆောင်၍ ထမြောက် အောင်မြင်၍ အထွဋ်အထိပ်သို့ ရောက်လေသည်။

(မှတ်ချက်။ အေဒီ ၁၉၄၆ ခု၊ ဒီဇင်ဘာလ) (ကျမ်းကိုး။ ယင်း စာ ၅၈၅ )

အထက်ပါ မှတ်တမ်းတို့သည် အလွန်ထူးခြားသည်ဟုဆိုနိုင်ပါသည်။ ဆရာတော် ဘုရားကြီးနှင့် ပထမလယ်တီဆရာတော်ဘုရားကြီးတို့ ဆက်နွယ်ပုံကိုလည်းကောင်း ဆရာတော်ဘုရားကြီး နှင့် တောင်ခွင်သာသနာပိုင်ဆရာတော်ကြီးတို့ ဆက်နွယ်ပုံကိုလည်းကောင်း ဖတ်ရှုရပုံမှာ အလွန်ကြည်ညို ဖွယ်ရာဖြစ်ပါသည်။

(ကျမ်းကိုး။ ဦးဌေးလှိုင်၊ စာ ၅၈၆ ၊ ၅၈၉ တို့ကို ရှုပါ။)



ဦးဇဝနသည် ရဟန်းဖြစ်၍မကြာမီ ပျဉ်းမနား အင်ကြင်းမြိုင်တောရ၌ လယ်တီဆရာတော်ထံနည်းခံစဉ် ညနေပိုင်းသို့ရောက်လျှင် ဆရာတော်ဘုရားကြီး တောကျောင်းအပြင်ဘက် တောထဲသို့ ကြွသွားသဖြင့် လိုက်၍ကြည့်ချင်စိတ် ပေါ် ပေါက်လာ၏။

နောက်တစ်ရက် ဆရာတော်ကပင် မောင်ဇဝန ငါနဲ့လိုက်ခဲ့ဟုဆိုကာ တောထဲ သို့ခေါ်သွား၏။ သင့်တော်ရာနေရာ၌ တရားရှုမှတ်ကြရသည်။

အမှောင်ပျိုးစ အလုပ်ခွင်မှထ၍ မောင်ဇဝန၊ တို့များကွယ် ဒီအာနာပါန ကို လမ်းကုန်အောင် ဖမ်းနေတာ နှာခေါင်းပေါက်နှစ်ဖက်က လွတ်လိုက်တဲ့ အလင်းဓာတ်က ဒီကမ္ဘာလောကဓာတ်ကြီးတစ်ခုလုံးကို ဆုံးအောင် လွှမ်းလို့ရ တယ်ကွယ်။ ဒါပေမယ့် ခက်တာက ဖြန့်ထားတဲ့အလင်းကို ပြန်ပြီးချုံ့လိုက်တော့ စည်းစည်းလုံးလုံးနဲ့ ကြည်ပြီးမလာဘူး။ အကွက်အကွက်နဲ့ ဆန်ကွဲ ကြဲနေသေး တယ်ကွ။ ဒါကိုသာ နိုင်နင်းရင်ကွယ်၊ ကမ္ဘာလောကဓာတ်ကြီးတစ်ခုလုံးကို နိုင်နင်းတော့ပါပဲ။ ကိုယ်လုပ်ချင်သလို လုပ်လို့ရသွားပြီ။ အေး မင်းလဲ ဒီမှာ နေရင် ငါ့လို ကြိုးစားဟု မိန့်တော်မူသည်။

ဆရာတော်ဘုရားကြီး၏ မှတ်စု လက်ရေးစာအရလည်းကောင်း၊ ဦးကာငြိမ်း စသူတို့၏ ပြောကြားချက်အရလည်းကောင်း၊ လောကီ တန်ခိုးရှင် များနှင့်တွေ့ပုံ၊ နာနာဘာဝများနှင့်တွေ့ပုံ၊ သိမ်တောင်ဘုရား မတည်မီက ဓာတ်တော်များရောင်ခြည် ကွန့်မြူးပုံ၊ ကျောင်းအမိုးပြိုကျမည်ကို ကြိုတင် သိမြင်၍ ရှုတ်တရက် တပည့်များကိုခေါ်ပြီး အပြင်ကြွသွားပုံ စသော ထူးဆန်း အံ့သြဖွယ်၊ ကြည်ညိုဖွယ်များလည်း ရှိပါသေးသည်ဟုသိရပါသည်။

(ကျမ်းကိုး။ ဓမ္မာစရိယဦးဌေးလှိုင်ထံမှတစ်ဆင့် သိရှိရပါသည် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ ၊ နဝမအကြိမ် စာ ၅၉၀ )

၁၉၅၉ ဆည်ကြီးတောရ ဆရာတော်ဘုရားသည် သက်တော် ၇၈ နှစ်အရ အေဒီ ၁၉၅၉ ခု နိုဝင်ဘာ ၁၃ ရက်၊ သောကြာနေ့ (၁၃၂၁ ခု၊ တန်ဆောင်မုန်းလဆန်း ၁၄ ရက်နေ့) နံနက် ၇ နာရီအချိန်တွင် စုတိကမ္မဇရုပ် ချုပ်ငြိမ်းတော်မူ၏။

၁၉၆၀ ၎င်းနောက် အေဒီ ၁၉၆၀ ပြည့်နှစ်၊ ဇန်နဝါရီ ၁၂ ရက် (၁၃၂၁ ခု၊ ပြာသိုလပြည့်နေ့၊ အင်္ဂါနေ့)တွင် စတုဒိသာကျွေးမွေး၍ သက်တော်စေ့ သက်န်းဒွိစုံလှူဒါန်းခြင်း၊ တရား ပူဇော်ခြင်းများဖြင့် အန္တိမစျာပနပွဲသဘင် ဆင်ယင်ကြလေသတည်း။

(ကျမ်းကိုး။ ဓမ္မာစရိယဦးဌေးလှိုင်ထံမှတစ်ဆင့် သိရှိရပါသည်။ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ ၊ နဝမအကြိမ် စာ ၅၉၀ ) မှတ်ချက်။ ဤနေရာတွင် ယင်းကျမ်း စာ ၅၉၀ တွင် ၁၃၁၂ ခုနှစ်ဟု ပုံနှိပ်အမှား တွေ့ရှိရပါသည်။ အမှန်မှာ ၁၃၂၁ သာ ဖြစ်သင့်ပါသည်။ ဆရာကြီး ဦးဌေးလှိုင်၏ အမှားမဟုတ်နိုင်။ ပုံနှိပ်မှု စာစီတို့ တိမ်းစောင်းမှုသာဖြစ်နိုင်ပါ သည်။ စဉ်းစားရန် ဖြစ်ပါသည်။)

နတ်များကို ညစဉ် ညစဉ် ဓမ္မစကြာတရားဟောသည်ဟု ကျော်ကြားသော

# ဝေပုလ္လတောင် ဘုန်းဘုရားကြီး ဦးဝေပုလ္လ

ခေဒီ ၁၈၈၃ – ၁၉၆၈ ( ၁၂၄၅ –၁၃၃၀ )





ညအခါ ကာလများတွင် ဦးဝေပုလ္လဆရာတော်ဘုရားကြီးသည် တရားဟောပလ္လင်ရှိရာ ခန်းမကြီး အတွင်း၌ လူသူတစ်စုံတစ်ယောက်မျှမရှိသော်လည်း ပလ္လင်ပေါ်တွင် ထိုင်တော်မူလျက် ဓမ္မစကြာ တရားတော်များကို ဟောကြားတော်မူလေ့ရှိကြောင်း အထူးအဆန်းကြားသိရသဖြင့် များစွာ ကြည်ညိုမိပါသည်။

ကာယကံ သုံးပါး၊ ဝစီကံ လေးပါး၊ မနောကံ သုံးပါး အခြေခံသည့် ဒုစရိုက် ၁၀ ပါး ရှောင်ကြဉ် ကြောင်း၊ သုစရိုက် ၁၀ ပါး ပြုကျင့်ကြောင်း တရားတော်ကို ဟောကြားလေ့ရှိခြင်း သိရှိရပါသည်။

> တတ်နိုင်သူတွေက တစ်နေ့ တစ်ရက် တစ်ပတ် တစ်လ တစ်နှစ် ရာသက်ပန် စသဖြင့် ခံယူဆောက် တည်ထိန်းသိမ်းကြ စေချင်တယ်။ အဲဒီတော့မှ လူပီသမယ်။ တိရစ္ဆာန်နဲ့ ခြားနားလိမ့်မယ်။ တမလွန်မှာလည်း ကောင်းရာဘုံကို ရောက်ကြပါလိမ့်မယ် ဟူ၍ လည်း ဟောတတ်ပါသည်။

(ကျမ်းကိုး၊ ဘုန်းပွင့်ထွန်း၊ ဝေပုလ္လတောင်ဆရာတော်ဘုရားကြီး၏ ဩဝါဒ ပါရမီမဂ္ဂဇင်း စာ၊ ၁၁၄)

**သို့နှင့် ဦးဝေပုလ္လဆရာတော်ဘုရားကြီးအကြောင်းကို လိုက်လံရှာဖွေရာ ပါဠိဆရာကြီး အဂ္ဂမဟာပဏ္ဍိတ ဆရာဖြေနှင့် ဆက်စပ်၍လည်းကောင်း၊ မဟာပညာဗလ ဦးကြီးဖေခေါ် ပထမကျော် အရှင်ပညာ သီဟနှင့်စပ်လျဉ်း၍လည်းကောင်း၊ ထွက်ရပ်ပေါက်ဆရာကြီး ဦးရဲသူနှင့် စပ်လျဉ်း၍လည်းကောင်း၊ အဆက်အစပ်များ ရှာဖွေတွေ့ရှိရပါသည်။**

(ကျမ်းကိုး၊ ဖိုးဒေါင်းသား ဝေပုလ္လတောင် ဘုန်းဘုရားကြီး ဦးကောသလ္လ၊ ဂမ္ဘီရမဂ္ဂဇင်း စာ၊ ၁၀)

ဝေပုလ္လတောင်ဆရာတော်ဘုရားကြီးကို ရဟန်းရှင်လူတို့က တစ်ပါးသော ဆရာတော်တို့ကဲ့သို့ ဆရာတော်ဟူ၍လည်းကောင်း၊ ဆရာတော်ဘုရားဟူ၍လည်းကောင်း၊ မခေါ်ဝေါ်ကြဘဲ 'ဘုန်းဘုရား'ဟူ၍ သာ ခေါ်ဝေါ်ကြသည်။

> (ကျမ်းကိုး၊ ဝေပုလ္လတောင်ဆရာတော်ဘုရားကြီး၏ ဘဝဖြစ်စဉ် အကြောင်းအရာနှင့်စပ်လျဉ်း၍ ယင်းဆရာတော်ဘုရားကြီး၏ ငယ်တပည့်ရင်း ပဋ္ဌမကျော် အရှင်ပညာသီဟ စီရင် ရေးသားအပ်သော 'ဗုဒ္ဓဝံသတ္တဒီပက' နိဂုံး၌တွေ့ရှိရ ပါသည်။ ထိုပထမကျော် အရှင်ပညာ သီဟသည် နောင်သောအခါ မဟာပညာဗလ ဦးကြီးဖေဆိုသူဖြစ်၍လာပါသည်။ ထိုဦးကြီး ဖေဆိုသူနှင့် စပ်လျဉ်း၍ စကားတစ်လုံးသာပြောပါဆိုလျှင် ဆဋ္ဌသင်္ဂါယနာအစ ဦးကြီးဖေက ဟူသော စကားပုံကလေးနှင့်ပင်လုံလောက်အောင် ရုပ်လုံးပေါ်လာမည်ဖြစ်ပါသည်။)

**မူလဘွဲ့နာမည်ထက် ဘုန်းဘုရားကြီးဟူ၍ ယခုတိုင် ဒါယကာ ဒါယိကာမများ အလေး ထား ခေါ်ကြသော ဆရာတော်ကြီးများမှာ ဘုန်းဘုရားကြီး ဘိုးပေါက်ဆိန်(ဦးဝိဇ္ဇာဓရ)နှင့် ဘုန်းဘုရားကြီး ဦးကောသလ္လတို့ နှစ်ပါးဖြစ်ကြသည်ဟုသိရပါသည်။**

> **ဘုန်းဘုရားကြီးဟု ခေါ်ဆိုကြသော အခြားဆရာတော်ကြီးတစ်ပါးလည်း ရှိပါသေးသည်။ ထိုဆရာတော်ကြီးမှာ မဟာမြိုင် စန္ဒာသူရိယဘွဲ့ခံ ဆရာတော် ကြီးဖြစ်ပါသည်။**

(ကျမ်းကိုး၊ ဖိုးဒေါင်းသား ဝေပုလ္လတောင် ဘုန်းဘုရားကြီး ဦးကောသလ္လ၊ ဂမ္ဘီရမဂ္ဂဇင်း စာ၊ ၁၀)

ထိုပထမကျော် ဦးကြီးဖေနှင့်စပ်လျဉ်း၍ ပါဠိဆရာကြီး အဂ္ဂမဟာပဏ္ဍိတ ဆရာဖြေကနှီးနွှယ်၍ လာပြန်ပါသည်။ ဆရာဖြေသည် ကျိုက်ထိုမြို့နယ် ဇုတ်သုတ်ကျေးရွာအနီး ကေလာသတောင်တော်နှင့် တစ်ဆက်တည်းရှိသော ဝေပုလ္လတောင်တော်ကို အကြောင်းပြုပြီးလျှင် ဝေပုလ္လဆရာတော်ဘုရားကြီးကို ကြည်ညိုသဖြင့် သိမ် ကျောင်း ဇရပ်များ ဆောက်လုပ်လှူဒါန်းခဲ့ရာ မော်ကွန်းတင် ကမ္ပည်းကျောက်စာကို



အဆိုပါပထမကျော် အရှင်ပညာသီဟက စိကုံးရေးသား မှတ်တမ်းတင်ထားသဖြင့် ယနေ့ထက်တိုင် ထိုကျောက်စာများကို ကေလာသတောင်တော်အနီး ဝေပုလ္လတောင်တော်တစ်ဝိုက်ဝယ် တွေ့ရှိနိုင်ပါသေးပါသည်။ ယနေ့တိုင် သွားရောက် ဖတ်ရှုနိုင်ပါသေးသည်။

(ကျမ်းကိုး၊ မဟာပညာဗလ၊ ဦးကြီးဖေ ဝေပုလ္လတောင်ဆရာတော် ထေရုပ္ပတ္တိကထာ၊ စေတီယုပ္ပတ္တိကထာ၊ ဓမ္မကန္တကထာ၊)

ပဥ္စမကျော် အရှင်ပညာသီဟကား ဝေပုလ္လတောင် ဆရာတော်ဘုရားကြီး၏ ငယ်တပည့်ရင်း ဖြစ်၏။ ရဟန်းဘဝ၌ တစ်ဆယ့်လေးနှစ် စာချခဲ့သည်။ နောက်တစ်ဆယ့်ရှစ်ဝါလောက်၌ လူ့အဖြစ်သို့ရောက်၍ ရန်ကုန်တက္ကသိုလ် ဘာသာပြန်နှင့် စာအုပ်ထုတ်ဝေရေးဌာန နည်းပြဆရာ လုပ်နေစဉ် ညှိုးနွမ်းနေသော မြတ်စွာဘုရား သာသနာကြီးကို စည်ပင် ပွင့်လင်းလာစေရန် ရည်ရွယ်ချက်ဖြင့် (၁) ဆဋ္ဌသင်္ဂါယနာ စိမ်ကိန်း၊ (၂) ပိဋကတ်တော် မြန်မာပြန် စိမ်ကိန်း၊ (၃) ပါဠိ မြန်မာ အဘိဓာန်စိမ်ကိန်း၊ (၄) မဟာဗုဒ္ဓဝင် စိမ်ကိန်း ဤစိမ်ကိန်းလေးခုကို ရေးသား၍ နိုင်ငံတော် ဝန်ကြီးချုပ်ဟောင်း ဦးနုထံ တင်သွင်းရာ သဘောတူသဖြင့် ယင်းစိမ်ကိန်းတို့ကို ကိုယ်တိုင် ပါဝင်ဆောင်ရွက်လျက် သာသနာကို အတူတကွ ချီးမြှောက်ရန် တိုက်တွန်းချက်ဖြင့် ၁၉၅၀ ပြည့်တွင် ဖ ဆ ပ လ အစိုးရ ခန့်ထားခြင်းကို ခံရသော မဟာပညာဗလ သာသနာ့ညွှန်ကြားရေးဝန်ဟောင်း ဦးကြီးဖေပင် ဖြစ်သည်။

(ကျမ်းကိုး၊ ကြီးဖေ၊ မဟာပညာဗလ၊ ဝေပုလ္လတောင်ဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိ ကထာ၊ စာ ၄)

ဤ၍ ဤမျှလောက်ဆိုလျှင် ပထမကျော်ဦးကြီးဖေအကြောင်း ရိပ်စားမိလောက်ပါပြီ။ ထိုပထမကျော် အရှင်ပညာသီဟသည်ပင်လျှင် မဟာပညာဗလ ဦးကြီးဖေဘဝမရောက်မီ လူမထွက်မီက ဝေပုလ္လဆရာတော်ဘုရားကြီးအကြောင်း စိကုံးရေးသားခဲ့ရာ ထိုအားကိုးလောက်သော မှတ်တမ်းကြီးကို ကိုးကား၍ အကြောင်းပြု၍ ဝေပုလ္လဆရာတော်ဘုရားကြီးအကြောင်း ထပ်ဆင့် ဖောက်သည်ချရပါမည် ဖြစ်ပါသည်။ မဟာပညာဗလ ဦးကြီးဖေ၏ မှတ်စုများဖြစ်ပါသည်။ ဖတ်ကြည့်ပါ။

ယခုအခါ ဝေပုလ္လတောင်ပေါ်၌ ဘုရားတည်ခြင်း၊ ကျောင်းဆောက်ခြင်း၊ ဇရပ်၊ တန်ဆောင်းဆောက်ခြင်း၊ ဓမ္မာရုံဆောက်ခြင်း၊ ရေကန်တည်ထားခြင်း စသောကုသိုလ်ကောင်းမှုတို့ကို ပြုကြရာ၌ ဆရာတော်ဘုရားကြီးသည် ဘယ်အခါမျှ နှုတ်ကပြောဆို၍ အလှူခံတော်မမူ၊ လိုချင် ဖြစ်စေချင်သော အရာကို အရိပ်အမြွက်မျှသော်လည်း မိန့်တော်မမူ၊ ပြလည်းပြတော်မမူ။ ဒါယကာ ဒါယိကာမတို့ စေတနာ သဒ္ဓါတရားအလျှောက်သာ ပြုလုပ်လှူဒါန်းကြခြင်းဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၆)

ဆရာတော်ဘုရားကြီးသည် 'ပတ္တစီဝရမာဒါယ'ဟူသော ဘုရားဟော ပါဠိတော်အတိုင်း သွားရာလာရာတို့၌ သပိတ်နှင့်သင်္ကန်းကိုသာ အလေးအမြတ်ပြုလျက် ယူဆောင်သွားတော်မူလေ့ရှိသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၇ )

## သမာဓိဂုဏ်

တရားနာသူ ဒါယကာ ဒါယိကာမတို့သည် ဆရာတော်ဘုရားကြီး၏ ပရိတ်တော် တရားတော် မေတ္တာတော် ကရုဏာတော်ကို ခံယူ၍ စားသောက်သုံးစွဲရလျှင် အနာရောဂါပျောက်ကင်းသည်၊ ဘေးဥပါဒ်အန္တရာယ်ကင်းသည်၊ ပစ္စည်း လာဘ်လာဘရသည်၊ တိုးတက်သည်၊ ရာထူးဌာနန္တရ ရသည်



တိုးတက်သည် စိတ်ချမ်းသာသည်, အသက်ရှည်သည်ဟု ယုံကြည်စိတ်ချလျက် ပရိတ်ရေ ပရိတ်ဆီ ပရိတ်ဆား ပရိတ်ပန်း စသည်တို့ကို ရှေ့တော်၌ ချထားလေ့ရှိကြသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၈ )

## ပညာဂုဏ်

ဝေပုလ္လတောင်ဆရာတော်ဘုရားကြီးသည် လောကီ လောကုတ္တရာ အရာရာတို့၌ ကြီးသောပညာ ထူထဲသောပညာ ရွှင်သောပညာ လျင်သောပညာ ထက်သောပညာ ဖောက်ထွင်းသောပညာနှင့် ပြည့်စုံတော်မူ၏။

ဆရာတော်ဘုရားကြီးသည် နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ ပါဠိ အဋ္ဌကထာ ဋီကာ အနု မဓု ယောဇနာ လက်သန်း ဂဏ္ဌိ ဝိနိစ္ဆယတို့၌ ကျွမ်းကျင် လိမ္မာတော်မူသည်၊ အခေါက်ခေါက် အခါခါ လေ့လာမှတ်သားသည်။ နှုတ်တက် အာဂုံ အရအမိများသည်။ အလွန်အမှတ်အသားကောင်းသည်။ အကြားအမြင် ဗဟုသုတနှင့် ပြည့်စုံတော်မူသည်။

စာရေးသူကိုယ်တိုင် သာမဏေဘဝ ရဟန်းဘဝဖြင့် ဆရာတော်ဘုရားကြီး ပိဋကတ် အခြေပြု သဒ္ဒါ သင်္ဂြိုဟ် ပါတိမောက် ဆန်း အလင်္ကာ အဘိဓာန် ပါဠိ အဋ္ဌကထာ ဋီကာတို့ကို သင်ယူသောအခါ မြန်မာ နိဿယ အမှီမရှိဘဲ ပါဠိသက်သက် ကိုသာကိုင်၍ အနက်မြန်မာပြန်ဆို ချပို့ပေးလေ့ရှိသည်။ အလွန် မြန်မာပြန်အနက် ဉာဏ်ကြီးတော်မူသည်ဟု မဟာပညာသီဟဗလဦးကြီးဖေက ဖော်ထုတ်တင်ပြခဲ့ပါသည်။

ပါဠိ အဋ္ဌကထာ ဋီကာ စသည်တို့၌ ခက်ရာခက်ဆစ်တို့ကို မေးမြန်းလျှောက် ထားသောအခါ၌လည်း အဆုတ်အဆိုင်းမရှိ ခဏချင်း အနက်အဓိပ္ပါယ် အယူအဆ အဆုံးအဖြတ်တို့ကို ရှင်းလင်းဖြေကြားတော်မူလေ့ရှိကြောင်း။ သိမ်အတွင်း သံဃကံ ဆောင်ရာ၌ ဥတ် ကမ္မဝါစာ ရွတ်ဖတ်သောအခါ အများအားဖြင့် သုံးပါးတစ်တွဲ ရွတ်ဖတ်လေ့ရှိရာ ဥတ် ကမ္မဝါစာ သုံးစုံမရှိလျှင် ဆရာတော်ဘုရားကြီးက တစ်ပါး သောပုဂ္ဂိုလ်တို့ကို ဥတ်ကမ္မဝါစာ ကိုင်စေ၍ မိမိကိုယ်တိုင်မူကား ဥတ် ကမ္မဝါစာကို မကိုင်ဘဲ နှုတ်လွတ်ရွတ်တတ်မူလေ့ရှိကြောင်း မဟာပညာဗလ ဦးကြီးဖေက တင်ပြခဲ့ ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၀-၁၁)

## ပညာရှိ ကဝိတစ်ဆူ

ဆရာတော်ဘုရားကြီးသည် ပညာသင်ကြားရာ၌လည်းကောင်း၊ ဗဟုသုတ ရှာမှီးရာ၌ လည်းကောင်း၊ ပေ ပုရပိုက် စာအုပ် စသည်တို့၌ ရေးမှတ်ထားလေ့မရှိ၊ ပါရမီထူးရှိ၍ သတိ သမ္ပဇဉ်နှင့် ပြည့်စုံသူဖြစ်ရကား အလိုရှိရာ ပညာ ဗဟုသုတတို့ကို နှုတ်တက်ရအောင် ဆောင်ထားလေ့ရှိသည်။ ဤသို့ နှုတ်ဖြင့်ဆောင်ထားနိုင်ခြင်းကား အလွန်ထူးခြားသော ဂုဏ်တစ်ရပ်ဖြစ်သည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၁)

## ပါသာဒိကဂုဏ် ( ကြည်ညိုဖွယ်ဂုဏ် )

ဆရာတော်ဘုရားကြီး ရောက်ရာ ရောက်ရာ အရပ်ဒေသတို့၌ ကျောင်း သင်္ကန်း ဆွမ်း ဆေး ပစ္စည်းလေးပါး ပေါ်များသည်။ ရဟန်းရှင်လူ ပြည်သူပြည်သားအများတို့ အထူးသဖြင့် ကြည်ညိုလေးစား ခြင်းကိုခံရသည်။



ထွက်ရပ်ပေါက် ဝိဇ္ဇာ ဇော်ဂျီများ အင်း အိုင် ခါးလှည့် လက်ဖွဲ့ ဆေးဝါး မန္တန် မန္တရားတို့ လိုက်စားတတ်မြောက်သော ဂန္ဓာရီပုဂ္ဂိုလ်ကြီးများ၏ ကြည်ညို လေးစားခြင်းကိုလည်း ခံရသည်ဟု အံ့ဖွယ်သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၄)

အထက်နတ်များ နတ်မင်းကြီးများ နတ်မင်းကြီးတို့ အခြွေအရံဖြစ်သော နတ်ဘီလူးများ ကုမ္ဘဏ်များ ဘုမ္မစိုး ရုက္ခစိုး အာကာသစိုးနတ်များ ဥစ္စာစောင့် ဖြစ်သော ဝေမာနိက နတ်များ၏ ကြည်ညိုလေးစားခြင်းကိုလည်းခံရသည်။ ဘုတ်၊ ပြိတ္တာ တစ္ဆေများ အစိမ်းသရဲများ၏ ကြည်ညိုလေးစားခြင်းကိုလည်း ခံရသည်ဟု ထပ်ဆင့်သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၄)

ဆရာတော်ဘုရားကြီးသည် ထွက်ရပ်ပေါက် ဝိဇ္ဇာ ဇော်ဂျီများ ဂန္ဓာရီပုဂ္ဂိုလ်ကြီးများ ကြည်ညိုလေးစားခြင်းကို ခံရသော်လည်း ယင်း ဝိဇ္ဇာ ဇော်ဂျီတို့ အတတ်ပညာများ ဂန္ဓာရီပုဂ္ဂိုလ်ကြီးတို့ အတတ်ပညာများကို လိုက်စားတော်မမူ၊ ရဟန်းတော်တို့ သီလသိက္ခာကိုသာ စင်ကြယ်စွာ ဆေးကြောကျင့်ကြံ အားထုတ်လျက် ဆည်းကပ်ဖူးမြင်လာသော ပရိသတ်အားကြီးမားသော မေတ္တာစိတ်ကြီးမားသော ကရုဏာစိတ်ဖြင့် မြတ်စွာဘုရား တရားတော်သက်သက်ကိုသာ ဟောကြားချီးမြှောက်ခြင်းဖြစ်ကြောင်း။ မဟာပညာဗလ ဦးကြီးဖေက မှတ်တမ်းတင်ခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၄)

ဆရာတော်ဘုရားကြီးထံ ရောက်လာ၍ ခန္ဓာငါးပါး ရုပ်နာမ်နှစ်ပါးကို အပ်နှင်းလှူဒါန်းသော ပုဂ္ဂိုလ်အချို့နှင့် မကျန်းမာသူအချို့တို့ကို ပုဂ္ဂိုလ်အားလျော်စွာလည်းကောင်း၊ အကြောင်းကိစ္စအားလျော်စွာလည်းကောင်း ကြည့်ရှုဆင်ခြင်တော်မူ၍ ယင်းပုဂ္ဂိုလ်တို့အား မေတ္တာစိတ်ကရုဏာစိတ်တို့ကို ခံယူနိုင်အောင် စင်ကြယ်စွာ ဆေးကြောသော အနေဖြင့် ယင်းပုဂ္ဂိုလ်တို့ သန္တာန်၌ရှိသော ဝိဇ္ဇာ ဇော်ဂျီတို့ အတတ်ပညာ၊ ဂန္ဓာရီတို့ အတတ်ပညာ၊ ဆေးဝါး အဆောင်အယောင်တို့ကို စွန့်ပယ်ပစ်ရန် အလှူခံတော်မူလေ့ရှိသည်။ တစ်သက်လုံး အစွန့်အပယ်ခိုင်းတော်မူလေ့ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၅)

သို့ဖြစ်သော်လည်း ဆရာတော်ဘုရားကြီးအချို့က ဝိဇ္ဇာ ဇော်ဂျီ ပုဂ္ဂိုလ်ကြီးအနေဖြင့် ကိုးကွယ်ကြကြောင်း။ အချို့က ဂန္ဓာရီ ပုဂ္ဂိုလ်ကြီးအနေဖြင့် ကိုးကွယ်ကြကြောင်း။ ထိုသို့ ကိုးကွယ်ကြခြင်းဖြစ်ကြောင်း။ စင်စစ်မှာ အရိယာနွယ်ဝင် သံဃ သရဏဂုံ ထိုက်သော သီလဝန္တ ရဟန်းတော်ကြီးတစ်ပါး ဆရာတော်ကြီးတစ်ပါးအနေဖြင့် ကိုးကွယ်ခြင်းသာ မှန်ကန်သော ကိုးကွယ်ခြင်းဖြစ်သည်ဟု ဆရာကြီးဦးကြီးဖေက မှတ်တမ်းတင်ခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၅)

## ဖွားမြင်တော်မူခြင်း

၁၈၈၃ မယ်တော် ဒေါ်ရွှေပွင့်သည် ဘုန်းသမ္ဘာ ကြီးမားသော အာဇာနည်ယောက်ျား လောင်းလျာ ပဋိသန္ဓေကို ထိန်းသိမ်းစောင့်ရှောက်လျက်နေခဲ့ရာ ဆယ်လပြည့်၍ အေဒီ ၁၈၈၃ ခု ဇွန်လ ၁၁ ရက်၊ (သက္ကရာဇ် ၁၂၄၅ ခုနှစ် ပဌမဝါဆိုလဆန်း ၇ ရက်၊



တနင်္လာနေ့နံနက် စက်နာရီ ၆ နာရီအချိန်၌ ချမ်းသာစွာမီးရှူးသန့်စင်ဖွားမြင်လေသည်။

မယ်တော် ဒေါ်ရွှေပွင့်သည် သမီးသုံးယောက် သားနှစ်ယောက်အားဖြင့် ငါးယောက်ဖွားမြင်ခဲ့ရာ ဝေပုလ္လတောင်ဆရာတော်ဘုရားကြီး လောင်းလျာမှာ အငယ်ဆုံး အတိဇာတ သားကောင်းသားမြတ် ဖြစ်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၂၅ )

၁၈၉၀ အေဒီ ၁၈၉၀ ခုနှစ် ( ၁၂၅၂ ခုနှစ်) အသက် ၇ နှစ်သားအရွယ်တွင် သယ်နံးကျွန်းကြီးကျောင်းဆရာတော် ဦးသီလစာရထံ၌ အပ်နှံ၍ ပညာသင်ယူခဲ့ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ဖိုးဒေါင်းသား စာ ၁၀)

## ရှင်သာမဏေပြုခြင်း

၁၈၉၇ အေဒီ ၁၈၉၇ ခု (၁၂၅၈ ခုနှစ်) အသက်အရွယ် တစ်ဆယ့်သုံးနှစ်အရွယ်သို့ ရောက်သောအခါ မယ်တော်ခမည်းတော်တို့သည် ဆရာတော်ဘုရားကြီး လောင်းလျာ သူငယ်ကို သယ်နံးကျွန်းကြီးကျောင်း ဆရာတော်ထံမှာပင် သင်္ကန်းပရိက္ခရာ စုံလင်စွာဖြင့် /သာသနာတော်တွင်းသို့ ရှင်သာမဏေအဖြစ်ဖြင့် သွတ်သွင်းကြသည်။ ဥပဇ္ဈာယ်ဆရာကား သယ်နံးကျွန်းကြီးကျောင်းဆရာတော်ပင်ဖြစ်သည်။ ဘွဲ့အမည်ကား - ရှင်ကောသလ္လတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၂၈)

ကျောင်းမအပ်မီကပင်လျှင် သင်ပုန်းကြီး မင်္ဂလသုတ် အပြင်အောင်ခြင်း၊ အတွင်းအောင်ခြင်း နမက္ကာရ ပရိတ်ကြီးအစရှိသည့် သင်ခန်းစာအဝဝကို အာဂုံရပြီးဖြစ်သည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ဖိုးဒေါင်းသား ၁၀ )

## ခင်မွန်သုံးဂိုဏ်းချုပ် ဆရာတော်ထံရောက်ခြင်း

၁၈၉၉ ထိုအခါ အသက် ၁၆ နှစ် အရွယ်ရှိသော သာမဏေ ရှင်ကောသလ္လသည် သယ်နံးကျွန်းကြီးကျောင်းဆရာတော်နှင့် ချောင်းဦးမြို့ ဆင်နွယ်ပေါင်း တောရကျောင်းသို့ လိုက်ပါသွားရသည်။

မကြာမီ ဆင်စွယ်ပေါင်း တောရကျောင်းဆရာတော်သည် ခင်မွန်ဂိုဏ်းကြီး၏ ရှေ့ဆောင်လမ်းပြ ဦးစီးနာယကဖြစ်သော ခင်မွန်သုံးဂိုဏ်းချုပ် ဆရာတော်ဘုရားကြီး အရှင်ဇာဂရထံသို့ ပို့အပ် အပ်နှင်းလေသည်။

၁၈၂၈ ခင်မွန်သုံးဂိုဏ်းချုပ် ဆရာတော်ဘုရားကြီး အရှင်ဇာဂရကား အေဒီ ၁၈၂၈ ခု (၁၁၉၀ ပြည့်နှစ်)၌ ဖွားမြင်သည်၊ ရွှေကျင်ဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်သည်။ ရွှေကျင်ဂိုဏ်းကြီး၌ နေ-လ အသွင် အလွန်ထင်ရှားသော ဆရာတော်တစ်ပါးဖြစ်သည်။

သာမဏေ ရှင်ကောသလ္လသည် ခင်မွန်ဆရာတော်ဘုရားကြီးထံတော်ပါး၌ ဆည်းကပ်လျက် ပညာဆက်လက်သင်ကြားကာ ပိဋကတ်တော် သင်ကြားပို့ချနည်း၊ ဝိနည်းသိက္ခာပုဒ်နှင့်အညီ ကျင့်သုံးနေထိုင်နည်း ပိဋကတ်ဆိုင်ရာ ခက်ရာခက်ဆစ်တို့၌ ယူဆနည်း စသည်တို့ကို လက်ဆုပ်လက်ကိုင်ရရှိအောင် ကြိုးစားသင်ယူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၃၁)



(မှတ်ချက်) ခင်မွန်ဆရာတော်ဘုရားကြီး အကြောင်းကို စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာတောရဆရာတော် စီစဉ်ရေးသားအပ်သော ရွှေကျင်နိကာယသမိုင်း စာ ၃၁၀ - ၃၁၂ တို့တွင် ကြည့်ရှုနိုင်ပါသည်။

## အလုံဆရာတော်ထံ ရောက်ခြင်း

ရှင်ကောသလ္လသည် ခင်မွန်ဆရာတော်ဘုရားကြီး ခြေတော်ရင်း၌ တစ်ဝါဆိုပြီးနောက် ဆရာတော်ဘုရားကြီး၏ ခွင့်ပြုချက်အရ ပိဋကတ္တယကောဝိဒ ဝိနယဂရုကဖြစ်သော အရှင်ပဏ္ဍိစ္စနှင့် အတူလိုက်၍ ခင်မွန်ဆရာတော်ကြီး၏တပည့် ပိဋကတ္တယဆောက ဝိနယကုက္ကုစ္စကဖြစ်သော အလုံဆရာတော် တိဿထံသို့ရောက်သည်။

အလုံဆရာဘော် အရှင်တိဿကား ဝိနည်းဆရာတော်ကို အလွန်အလေးပြုသည်၊ ဂုဏ်ပကာသနမကြိုက်၊ အလုံဆရာတော်ဟု ခေါ်သည်ကိုပင် မနှစ်သက်၊ အလုံဘုန်းကြီးဟု ခေါ်ခြင်းကိုသာ နှစ်သက်သည်။

၁၉၂၆ အေဒီ ၁၉၂၆ ခု (၁၂၈၈ ခုနှစ်)၌ သိမ်သမုတ်ရန် ပင့်လျှောက်၍ ဝေပုလ္လတောင်သို့ကြွလာ၏။ သိမ်သမုတ်ပြီး နှစ်လလောက် သီတင်းသုံးသည်။

ထိုအချိန်အခါတွင် မဟာပညာဗလဘွဲ့ခံ ပထမကျော် ဦးကြီးဖေသည် အလုံဆရာတော် ဘုရားကြီးထံရှိနေပါသည်။ ထိုကြောင့် အောက်ပါအတိုင်း ကိုယ်တွေ့မှတ်သားခဲ့ပါသည်။

> ထိုအခါ စာရေးသူသည် ရဟန်းဖြစ်၍ အလုံဆရာတော်ဘုရားကြီးထံ ဆည်းကပ်ကာ ဝိနည်းဘက်ဆိုင်ရာ ခက်ရာခက်ဆစ်တို့ကို လျှောက်ထားဖူး၏။ လျှောက်ထားသောအခါ ဆိုင်းငံ့ခြင်းမရှိ ဖြေကြားဆုံးဖြတ်တော်မူသည်။ လက်ဆုပ်လက်ကိုင်လည်း ပြတော်မူလေ့ရှိသည်။
>
> ဆရာတော်ဘုရားကြီးသည် ဝိနည်းသိက္ခာပုဒ်တို့၌ အလွန်သံသယ ကုက္ကုစ္စရှိသည်။ ရေဘုဉ်း ပေးသောအခါ ကွယ်ရာရေအိုးမှ ခပ်ယူလာသောရေကို သံသယရှိ၍ ဘုဉ်းပေးတော်မမူ၊ ထို့ကြောင့် ရေကပ်သူသည် (ဓမကရိုဏ်)ရေစစ်ကို ရေအိုး၌နှစ်ပြီးလျှင် အပေါ်ကို လက်ဖြင့်ပိတ်၍ တစ်ဖက်ကယူလျက် တစ်ဖက်က ရေခွက်အလွတ်ကိုယူပြီးလျှင် ရှေ့တော်သို့ရောက်မှ ရေစစ်၌ရှိသောရေကို ရေခွက်၌ ပြောခနဲထည့်၍ ကပ်ပါမှ မျက်မြင်ဖြစ်သောကြောင့် ဘုဉ်းပေးတော်မူသည်။ 'အဟောဝိနယ ဂရုယော၊ ဩော် - ဝိနည်းကို အလေးပြုစွတကား'။ ဤဖြစ်ရပ်ကား စာရေးသူမျက်မြင်ကိုယ်တွေ့ဖြစ်ရ၏။
>
> ထိုအလုံဆရာတော်ဘုရားကြီး အရှင်တိဿကား နောင်အခါ "စတုတ္ထမြောက် ရွှေကျင်ဂိုဏ်းကြီး၏ ဥက္ကဋ္ဌ မဟာနာယက ရွှေကျင်သာသနာပိုင်' ဖြစ်တော်မူသည်။
>
> (ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၃၂-၃၃)

၁၉၂၈ အလုံဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကို ရွှေကျင်နိကာယ သာသနာဝင်ကျမ်းတွင် တွေ့ရှိရပါသည်။ အလုံဆရာတော်ဘုရားကြီးသည် ၁၂၇၉ ခုနှစ်၌ စတုတ္ထမြောက် ရွှေကျင်နိကာယ ဓမ္မသေနာပတိ ဖြစ်တော်မူကြောင်းသိရပါသည်။ အေဒီ ၁၉၂၈၊ နိုဝင်ဘာလ ၂၉ ရက်၊ ကြာသပတေးနေ့ (၁၂၉၀ ပြည့်နှစ် နတ်တော်လပြည့်ကျော် ၃ ရက်နေ့)၌ ပျံလွန်တော်မူပါသည်။



(ကျမ်းကိုး၊ စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာ ဆရာတော် အရှင်ပဏ္ဍိတထေရ်၊ ရွှေကျင်နိကာယ သာသနာဝင် ဒုတိယအကြိမ်၊ ၁၉၈၈ ခု၊ စာ ၂၁၈ - ၂၁၉)

ခင်မွန်ဆရာတော်ဘုရားကြီး အလုံဆရာတော်ဘုရားကြီး အရှင်ပဏ္ဍိစ္စတို့၏ နည်းနိဿယကို ကောင်းစွာရရှိသဖြင့် ငယ်စဉ် သာမဏေဘဝကပင် ပိဋကတ်တော်တို့၌ ကျွမ်းကျင်လိမ္မာလျက် ကိုယ်တိုင် သွားလာနိုင်သောအဖြစ်သို့ရောက်ခဲ့သည်။

## ရဟန်းအဖြစ်သို့ ရောက်ခြင်း

၁၉၀၂ အေဒီ ၁၉၀၂ (သက္ကရာဇ် ၁၂၆၄ ခုနှစ်၌ ချောင်းဦးမြို့ ငယ်ဆရာဖြစ်သော ဆင်စွယ်ပေါင်း တောရကျောင်း ဆရာတော်ထံသို့ ပြန်ရောက်သည်၊ ထိုနှစ် ဝါဆိုလဆန်း ၁၀ ရက် တနင်္လာနေ့တွင် ပဋိသန္ဓေနှင့်တကွ အသက် ၂၀ ပြည့်သဖြင့် ဆင်စွယ်ပေါင်း တောရကျောင်း ခဏ္ဍသိမ်၌ ခင်မွန် သုံးဂိုဏ်းချုပ် ဆရာတော်ဘုရားကြီး အရှင်ဇာဂရ ကို ဥပဇ္ဈာယ်ပြု၍ သာမဏေ ရှင်ကောသလ္လသည် မြင့်မြတ်သော ရဟန်း(ပဉ္စင်း) အဖြစ်သို့ရောက်သတည်း၊ ဘွဲ့အမည်မှာ သာမဏေဘွဲ့ အမည်အတိုင်း အရှင်ကော သလ္လပင်ဖြစ်သည်။

(ကျမ်းကိုး စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာ တောရဆရာတော်၊ အရှင်ပဏ္ဍိတထေရ်၊ ရွှေကျင်နိ ကာယသာသနာဝင်အကျဉ်း၊ ဒုတိယအကြိမ် ၁၉၈၈၊ စာ ၃၁၇ - ၃၁၈)

(မှတ်ချက် ) ရဟန်းပြုသစ်စ အရှင်ကောသလ္လ၏ ဆရာကား လဇ္ဇီသီလဝန္တ သိက္ခာကာမ ဖြစ်သော ခင်မွန် သုံးဂိုဏ်းချုပ် ဆရာတော်အရှင်ဇာဂရဖြစ်၏။ ၎င်း၏ဆရာ ရွှေကျင် ဆရာတော် အရှင်ဇာဂရ၊ ၎င်း၏ဆရာတော် သီးလုံးဆရာတော် အရှင်စန္ဒိမာ၊ ၎င်း၏ ဆရာ ဒီပဲရင်းနမောဆရာတော် အရှင်ဝိစာရ်နှ၊ ဤသို့ အစဉ်အတိုင်း အထက်သို့ဆက်ရာ မြန်မာနိုင်ငံ အာဗိကမ္ဘိက ဒုတိယ သုဝဏ္ဏဘူမိ သထုံပြည် သာသနာပြု အရှင်သောဏနှင့် အရှင်ဥတ္တရတို့ဖြစ်သည်။

၎င်းတို့မှ အထက်သို့ ဆက်ပြန်သော် မြတ်စွာဘုရားလက်ထက် ဝိနည်းမိုရ်ဓတဒဂ်ရ အရှင် ဥပါလိတိုင် အစဉ်မပြတ် ဆက်စပ်လျက်ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၃၇)

## အောက်အရပ်သို့ ပြန်ကြွခြင်း

၁၉၀၃ ရဟန်းတော် အရှင်ကောသလ္လသည် ပညာပြည့်စုံပြီဖြစ်၍ ကျေးဇူးရှင် ဆရာတော် ဘုရားကြီးတို့ကို ခွင့်ပန်လျှောက်ထားပြီးလျှင် အေဒီ ၁၉၀၃ (၁၂၆၅ ခုနှစ်) မိမိ၏ ဖွားမြင်ရာဒေသ အောက်အရပ်သို့ပြန်ကြွ၍ ၎င်းနှစ် ရန်ကုန်မြို့အနီး မင်္ဂလာဒုံ စော်ဘွားကြီးကုန်း တောရကျောင်း၌ တစ်ဝါဆိုသည်။

၁၉၀၄-၀၅ အေဒီ ၁၉၀၄-၀၅ (၁၂၆၆ - ၆၇ ခုနှစ်၌ တောင်ငူခရိုင် ရေတာရှည်မြို့ ကျောင်းသစ် ကျောင်း၌ နှစ်ဝါဆိုသည်။

၁၉၀၆-၀၇ ၁၉၀၆-၀၇ (၁၂၆၈ - ၆၉ ခုနှစ်၌ သုံးခွမြို့ ဥက္ကံရပ် ဘုရားကြီးတိုက်၌ နှစ်ဝါဆိုသည်။ ယင်းကျောင်းတိုက်၌ စာချရန် တိုက်တွန်းတောင်းပန်ကြသဖြင့် လာလာသမျှသော



စာသင်သားတို့အား ဂဏ္ဍာဝါစကအဖြစ်ဖြင့်စာချသည်။ (စာချသော သာသနာပြုလုပ်ငန်း ဤအခါမှစသည်။)

၁၉၀၈ အေဒီ ၁၉၀၈ (၁၂၇၀ ပြည့်နှစ်)၌ လှည်းကူးမြို့အပိုင် ဒါးပိန်ရွာ တောရကျောင်း၌ တစ်ဝါဆို၍ စာချသည်။

၁၉၀၉ အေဒီ ၁၉၀၉ (၁၂၇၁ ခုနှစ်)၌ တောင်ငူခရိုင် ကျေးတောဘူတာအနီး ငါးဖယ်အင်းကျောင်း၌ တစ်ဝါဆို၍စာချသည်။

၁၉၁၀ အေဒီ ၁၉၁၀ (၁၂၇၂ ခုနှစ်)၌ ဖျာပုံမြို့ သာစည်ကျောင်းသစ်၌ တစ်ဝါဆို၍ စာချသည်။

၁၉၁၁ အေဒီ ၁၉၁၁ (၁၂၇၃ - ၇၄ ခုနှစ်)၌ ဖြူးမြို့ ရွှေကျင်တောင်ကျောင်း၌ နှစ်ဝါဆို၍ စာချသည်။

၁၉၁၃ ဖြူးမြို့၌ ဝါဆိုစဉ် ရဟန်းဝါ ၁၀ - ဝါ ရရှိ၍ ကဆုန်လသို့ ရောက်သောအခါ ဖြူးမြို့အရှေ့ဘက် မီးတိုင်တောသို့ သွား၍ တစ်ပါးတည်းနေထိုင်ကာ ဘာဝနာကမ္မဋ္ဌာန်းကို စီးဖြန်းအားထုတ်သည်။ နောက် ဝါဆိုမီ နေခဲ့ရင်း ကျောင်းသို့ပြန်၍ စာချပြန်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၃၈-၃၉)

## ကြို့ကုန်းကျောင်းသို့ ရောက်တော်မူခြင်း

၁၉၁၃-၁၆ အေဒီ ၁၉၁၃ - ၁၉၁၆ ခု (၁၂၇၅ - ၇၆ - ၇၇ - ၇၈ ခုနှစ်)တို့၌ ပျဉ်းမနားနယ် လယ်ဝေးမြို့အနီး ကြို့ကုန်းကျောင်းသို့ရောက်ပြီးလျှင် လေးဝါဆို၍ လာလာသမျှသော စာသင်သားတို့အား စာချသည်။ ထိုကျောင်း၌ကား အကြီးအမှူးပြု၍ နေထိုင်ခဲ့သည်။

## ပဌမကျော် အရှင်ပညာသီဟသာမဏေနှင့် တွေ့ဆုံခြင်း

ကြို့ကုန်းကျောင်းသို့ ရောက်သောအခါ ပဌမကျော် အရှင်ပညာသီဟကို သာမဏေအဖြစ်ဖြင့်တွေ့ရသည်။ သာမဏေရှင်ပညာသီဟလည်း ဆရာတော်ထံ၌ ပိဋကတ်အခြေခံကျမ်းများမှစ၍ ပိဋကတ်တော်တို့ကိုသင်ကြားသည်။

## ရဟန်းဒကာ ဆရာကြီး ဦးရဲသူ

နောက် သာမဏေရှင်ပညာသီဟသည် ဆရာတော်အရှင်ကောသလ္လနှင့် မန္တလေးသို့လိုက်ပါကာ မန္တလေးမြို့ မဟာအောင်မြေရပ်နေ ဆရာကြီးဦးရဲသူ ဆရာကတော်ဒေါ်မျှင်တို့က ရဟန်းဒါယကာပြုလုပ်ကာ ဆရာတော်ကိုပင် ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ရောက်သည်။ ရဟန်းဖြစ်ပြီး ဆရာတော်နှင့်အတူ ကြို့ကုန်းကျောင်းသို့ ပြန်လာသည်။

ရဟန်းတော် အရှင်ပညာသီဟသည် ဆရာတော်ထံ ဆက်လက် ပညာသင်ကြားပြန်ရာ သုံးဝါရရှိသောအခါ ပိဋကတ်တော်တို့၌ ကျွမ်းကျင်လိမ္မာ၍ ကိုယ်တိုင်ကြည့်ရှု သုံးသပ်နိုင်သော အခြေသို့ရောက်သည်။

ဤသို့လျှင် ဆရာတော် အရှင်ကောသလ္လသည် ရဟန်းငါးဝါမှ ဆယ့်ငါးဝါ



တိုင်အောင် ဆယ့်တစ်နှစ်ပတ်လုံး ရောက်ရာရောက်ရာအရပ်တို့၌ စာချလျက် ပရိယတ္တိ သာသနာတော်ကြီးကို အစွမ်းကုန်ချီးမြှောက်၍ သာသနပြုလုပ်ငန်းကို ဆောင်ရွက်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၀)

## ရတနသုတ်ကို ဟောခြင်း

၁၉၁၆ ထိုကြို့ကုန်းကျောင်း၌ သီတင်းသုံးစဉ်ပင် အေဒီ ၁၉၁၆၊ ဒီဇင်ဘာလ ၁၅ ရက် သောကြာနေ့ (၁၂၇၈ ခုနှစ် နတ်တော်လပြည့်ကျော် ၆ ရက်နေ့)၌ 'ရတနသုတ်' တရားတော်ကို စ၍ဟောတော်မူသည်။

ဆရာတော်သည် ထိုအခါမှစ၍ စာချခြင်း သာသနာပြုလုပ်ငန်းကို ရပ်နား၍ တရားဟောခြင်း သာသနာပြုလုပ်ငန်းကိုသာ ဆောင်ရွက်တော်မူသည်။

ထို့ကြောင့် ဆရာတော်၏ဖြစ်စဉ် အကျဉ်းချုပ်အားဖြင့် ရဟန်းတစ်ဝါရ ပိဋကတ်တော်၌ ကျွမ်းကျင်တတ်မြောက်သည်။ ငါးဝါရစာချသည်၊ ဆယ့်ငါးဝါမှစ၍ ယနေ့ထက်တိုင် တရားဟောသည်ဟု ဆိုလိုသည်။

၁၉၁၇ အေဒီ ၁၉၁၇ ခု (၁၂၇၉ ခုနှစ်)၌ ကြို့ကုန်းကျောင်းမှ ဖဲခွာကာ ကျိုက်ထိုနယ်သို့ ရောက်ပြီးလျှင် တကေးကျောင်းကြီး၌ တစ်ဝါဆို၍ တရားဟောသည်။

၁၉၁၈-၁၉ အေဒီ ၁၉၁၈-၁၉ ခု (၁၂၈၀ - ၈၁ ခုနှစ်)၌ ရက်ကန်းသည်မရွာ အနောက်ဘက် တောင်သို့ရောက်၍ မြသိန်းတန်ဘုရားကြီးအနီး ဝေါမြို့လောကဓာတ်ကွင်း သူဌေးဦးမိုး သူဌေးကတော် ဒေါ်မယ်ဆင်တို့ ဆောက်လုပ်လှူဒါန်းအပ်သော ဝေဇယန္တာ ပြာသဒ် ကျောင်း၌ နှစ်ဝါဆို၍ တရားဟောသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၁-၄၂)

## ဓမ္မစကြာကို ဟောခြင်း

၁၉၁၈ အေဒီ ၁၉၁၈ ခု (၁၂၈၀ ပြည့်နှစ် ဝါဆိုလပြည့်နေ့) မြတ်စွာဘုရား ဗာရာဏသီပြည် မိဂဒါဝုန်တော၌ တစ်ဆယ့်ရှစ်ကုဋေသော နတ်ပြဟ္မာတို့နှင့်တကွ ပဉ္စဝဂ္ဂီငါးဦးတို့အား ဟောတော်မူသော အထိမ်းအမှတ်ဖြင့် (ဓမ္မစက္ကပဝတ္တနသုတ်)ဓမ္မစကြာကို စ၍ ဟောသည်။

၁၉၂၀ အေဒီ ၁၉၂၀ ခု (၁၂၈၂ ခုနှစ်)၌ ဝေါမြို့ လောကဓာတ်ကွင်း သူဌေးဦးမိုး သူဌေးကတော် ဒေါ်မယ်ဆင်တို့၏ လောကဓာတ်ကွင်းကျောင်း၌ တစ်ဝါဆို၍ တရားဟောသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၃)

၁၉၂၁ အေဒီ ၁၉၂၁ ခု (၁၂၈၃ ခုနှစ်)တကေးရွာ တောင်ကလေးကျောင်း၌ တစ်ဝါဆို၍ တရားဟောသည်။ (ထိုအခါ ဝါတော်နှစ်ဆယ်ပြည့်ပြီ။)

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၄)



## ဝေပုလ္လတောင်သို့ ရောက်တော်မူခြင်း

ရဟန်းနှစ်ဝါမှစ၍ ဝါနှစ်ဆယ်တိုင်အောင် ကျောင်းအမြဲမနေဘဲ သင့်လျော်သောကျောင်း၌ ဝါဆို၍ စာချခြင်း တရားဟောခြင်းဟုဆိုအပ်သော သာသနာပြုလုပ်ငန်းတို့ကို မပျက်မကွက် ဆောင်ရွက်ခဲ့သည်။

၁၉၂၂ အေဒီ ၁၉၂၂၊ ဇူလိုင်လ ၈ ရက်၊ စနေနေ့ (၁၂၈၄ ခုနှစ် ဝါဆိုလပြည့်နေ့)၌ ဝေပုလ္လတောင်သို့ရောက်သည်၊ ရောက်စ၌ ကျောင်းအဆောက်အဦမရှိ။ ချုံအတွင်း၌ သီတင်းသုံး၍ ကိုယ်တိုင်လည်း တရားအားထုတ်သည်၊ ဆည်းကပ်လာသော ဒါယကာ ဒါယိကာမတို့ကိုလည်း တရားဟောသည်။ ညဦးအိပ် ညဦးနေ လက်မခံ၊ ဆိတ်ငြိမ်စွာ သီတင်းသုံးသည်။ နောက်ဝါးကျောင်းငယ်တစ်ဆောင် ဆောက်လုပ်လှူဒါန်းကြသဖြင့် ထိုဝါးကျောင်းငယ်၌ သီတင်းသုံးတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၄)

## အရှင်ပညာသီဟ ရောက်လာခြင်း

၁၉၂၀ အေဒီ ၁၉၂၀ (၁၂၈၈ ခုနှစ်)၌ ပဌမကျော် စာချဘုန်းကြီး အရှင်ပညာသီဟသည် နှစ်ရှည်လများ ဒူလာရောဂါစွဲကပ်သဖြင့် မကျန်းမမာဖြစ်ကာ နောက်ပါတပည့်ငါးပါးနှင့် ဆရာတော်ဘုရားကြီး ခြေတော်ရင်းသို့ ရောက်လာသည်။

ထိုအခါ ကျောင်းမပြည့်စုံသဖြင့် ဒါယကာ ဒါယိကာမတို့သည် စာချဘုန်းကြီး အရှင်ပညာသီဟနှင့် နောက်ပါတပည့်များနေထိုင်ရန် ယာယီကျောင်းများ ဆောက်လုပ်လှူဒါန်းသောကြောင့် နေရာထိုင်ခင်းပြည့်စုံသွားသည်။

အရှင်ပညာသီဟလည်း ခြေတော်ရင်းသို့ ရောက်သောအခါ နေ့စဉ်တရားတော်ကိုကြားနာရ မကြာမီ ဒူလာရောဂါ ပျောက်ကင်းသွားသဖြင့် နောက်ပါတပည့်တို့အား စာဝါ မှန်မှန်ချ၍ နှစ်စဉ်အစိုးရ ပဌမပြန်စာမေးပွဲ၌ ဝင်ရောက်ဖြေဆိုနိုင်ကြသည်။

> အထူးအားဖြင့် အရှင်ပညာသီဟနှင့် ပါလာသော တပည့်ငါးပါးတို့တွင် 'ယခုအခါ ရန်ကုန်မြို့ ဘောက်ထော် ဆယ်တောင်ပြည့်ဘုရားအနီးရှိ ကျောင်း၌သီတင်းသုံးသောကြောင့် ဆယ်တောင်ပြည့် ဆရာတော်'ဟု ထင်ရှားသော အရှင်ဇနိတသည် ထိုအခါက ရှင်သာမဏေအဖြစ်ဖြင့် ပါလာခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၅)

## အဂ္ဂမဟာပဏ္ဍိတ ဆရာဖြေ

ထိုအခါ ဝေပုလ္လတောင်၌ ဆရာတော်ဘုရားကြီး သီတင်းသုံးသော တုလွတ်ဝေယန်တိုက်ကျောင်း ဆွမ်းစားကျောင်း စာချဘုန်းကြီးနှင့် ရဟန်းသာမဏေတို့ နေသောကျောင်း၊ မမကြီး၏ သာသနာသုဒ္ဓိမှော်ရုံ၊ အဂ္ဂမဟာပဏ္ဍိတ ဆရာဖြေ၏ သာသနောဒယသိမ်၊ ဇရပ်တန်းကြီး၊ မဟာအတုလမြစေတီ၊ ရေကန်မှစ၍ စေတီနှင့်အဆောက်အဦများ ပြည့်စုံလျက်ရှိသည်။ တောင်တစ်ခုလုံး သစ်သီးသစ်ပင် အရိပ်အာဝါသ ပန်းမာလ်တို့ဖြင့် အေးချမ်းသာယာလျက်ရှိသည်။



ဆရာတော်ဘုရားကြီးသည် ဒုတိယကမ္ဘာစစ်ကြီးဖြစ်သောအခါ၌လည်း ပြောင်းရွှေ့တော်မမူ၊ ဤတောင်၌ပင် သီတင်းသုံး၍ နေ့စဉ်တရားတော်နှင့်သာ ပျော်မွေ့တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၆)

## စတုဓာတုသုတ်ကို ဟောခြင်း

၁၉၅၃ ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၅၃ ခု ဇွန်လ ၂၉ ရက်၊ သောကြာနေ့ (၁၃၁၅ ခုနှစ်) ဝါဆိုလပြည့်နေ့၌ 'စတုဓာတုသုတ်' ဓာတ်လေးပါးကို စ၍ ဟောတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၈)

## ဆဓာတုဝိဘင်္ဂသုတ်ကို ဟောခြင်း

၁၉၅၇ အေဒီ ၁၉၅၇ ၊ ဇူလိုင်လ ၁၁ ရက်၊ ကြာသပတေးနေ့ (၁၃၁၉ ခုနှစ်) ဝါဆိုလပြည့်နေ့၌ 'ဆဓာတုဝိဘင်္ဂသုတ်' ဓာတ်ခြောက်ပါးကို စ၍ ဟောတော်မူသည်။

၁၉၅၃ ဤဓာတ်လေးပါးနှင့် ဓာတ်ခြောက်ပါးတို့ကို ဟောခြင်းအကြောင်းကား အေဒီ ၁၉၅၃ မေလ ၂၇ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၁၅ ခုနှစ်က ကဆုန်လပြည့်နေ့)မှစ၍ သတ္တလောကကြီးဝယ် အဇ္ဈတ္တသန္တာန် ဗဟိဒ္ဓသန္တာန်၌ ဓာတ်ကြီးလေးပါး ဓာတ်ကြီးခြောက်ပါးတို့ ဖောက်ပြန်သဖြင့် သတ္တဝါတို့၌ အနာရောဂါအမျိုးမျိုး ဘေးအန္တရာယ်အမျိုးမျိုး ကျရောက်ကာပျက်စီးကြမည့် အကြောင်းနိမိတ်ကို မြင်သိသော ဆရာတော်ဘုရားကြီးသည် ထိုအနာရောဂါအမျိုးမျိုး ဘေးအန္တရာယ်အမျိုးမျိုးတို့မှ ကာကွယ်နိုင်ရန် ဖြစ်လာပြန်ကလည်း ပျောက်ကင်းစေရန် ရည်ရွယ်ချက်ဖြင့် မေတ္တာကရုဏာ ရှေ့ထားလျက် ဟောတော်မူခြင်းဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၉)

ဆရာတော်ဘုရားကြီးသည် တပည့်ဒါယကာ ဒါယိကာမတို့ ပင့်လျှောက်ချက်ဖြင့်လည်းကောင်း တစ်ခါတရံ အထူးကိစ္စဖြင့်လည်းကောင်း တစ်နှစ်တစ်ခါ၊ နှစ်နှစ်တစ်ခါ၊ သုံးနှစ်တစ်ခါဆိုသလို ရန်ကုန်မြို့ကြွလာတတ်သည်။ ကြွလာသောအခါ အများအားဖြင့် ရန်ကုန်မြို့ ကန်တော်ကြီးပတ်လမ်းရှိ ကျောင်းအမကြီး ဒေါ်လှရွှေ တိုက်၌ တည်းခို၍ တရားဟောလေ့ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၅၂)

ဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့သို့ ရောက်သောအခါ၌လည်းကောင်း၊ အခြားမြို့သို့ ရောက်သော အခါ၌လည်းကောင်း သံဃာကိစ္စမှတစ်ပါး မည်သည့်ကျောင်း မည်သည့်အိမ်သို့မျှ ကြွတော်မမူ၊ ပင့်၍လည်းမလိုက်၊ ဖူးမြင်လိုသူ တရားနာလိုသူတို့သည် တည်းခိုနေထိုင်ရာသို့ လာရောက်၍ ဖူးမြင်ကြရသည်။ တရားနာကြရ သည်။

၁၉၁၆-၆၇ ဝေပုလ္လတောင်ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၁၆ - ၁၉၆၇ (၁၂၇၈ ခုနှစ်မှ စ၍ ၁၃၂၈ ခု ယခုနှစ်တိုင်အောင် တရားဟောလာရာ နှစ်ပေါင်း(၅၀) ကျော်ရှိပေပြီ။ အသက်တော်လည်း ၈၅ နှစ် ရှိပေပြီ။ အသက်တော်ကြီးရင့်သော်လည်း ကျန်းမာဝဖြိုးလျက် အရွယ်ရှိစဉ်ကလိုပင် အသွားအလာအနေအထိုင်မပျက် တရားဟောနိုင်လျက် ပင်ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၅၂-၅၃)



## နေ့စဉ်ဟောသော တရားတော်များ

ဆရာတော်ဘုရားကြီး နေ့စဉ်ဟောသော တရားတော်တို့ကား အောက်ပါအတိုင်းဖြစ်သည်။

ရတနသုတ် ဓမ္မစက္ကပဝတ္တနသုတ် (ဓမ္မစကြာ)၊ အနတ္တလက္ခဏသုတ်၊ စတုဓာတုသုတ် (ဓာတ်လေးပါး)၊ ဆဓာတု ဝိဘင်္ဂသုတ် (ဓာတ်ခြောက်ပါး) ဤတရားတော်တို့ကား အထူးသတ်မှတ်၍ ဟောသောတရား တော်တို့ဖြစ်သည်။

ထို့ပြင် ဗြဟ္မဇာလသုတ်၊ မဟာသတိပဋ္ဌာနသုတ်၊ မဟာသမယသုတ်၊ အာဋာနာဋိယသုတ်၊ ဓဇဂ္ဂသုတ်၊ မေတ္တာသုတ်၊ အဂ္ဂိက္ခန္ဓူပမသုတ်၊ ဓမ္မပဒ၊ ပဋ္ဌာန်း ပစ္စယနိဒ္ဒေသ၊ ပဋ္ဌာန်းပဥှာဝါရ ဤတရားတော်တို့ကား (၆)ရက် တစ်ပတ် ထည့်သွင်း၍ ဟောသော တရားတော်တို့ဖြစ်သည်။

(၆)ရက်ကို တရားတစ်ပတ်ထား၍ ဟောခြင်းကား မြတ်စွာဘုရားသည် ဗောဓိပင်နှင့်ရွှေပလ္လင်၌ ဘုရားဖြစ်တော်မူစအခါ ဘုရားရတနာ တရားရတနာဟူ၍ ရတနာနှစ်ပါးသာရှိသေးသည်။ နောက် ဗာရာဏသီပြည် မိဂဒါဝုန်တောသို့ကြွ၍ ဓမ္မစက္ကပဝတ္တနသုတ် (ဓမ္မစကြာ)တရားကို ဟောတော်မူရာ ကြားနာရသဖြင့် ပဉ္စဝဂ္ဂီငါးဦးတို့ ရဟန်းပြုကြသောအခါ၌ကား ဘုရားရတနာ တရားရတနာ သံဃာရတနာဟူ၍ ရတနာသုံးပါးရှိလာသည်။

ထို့သို့ ရတနာသုံးပါးရှိရာဝယ် သံဃာရတနာ အစဦး၌ ဘုရားတစ်ပါး ပဉ္စဝဂ္ဂီငါးပါးအားဖြင့် (၆)ပါးက စသည်ကို အစွဲပြု၍ (၆)ရက်ကို တရားတစ်ပတ်ထား၍ ဟောခြင်းဖြစ်သည်။

ဆရာတော်ဘုရားကြီးသည် တရားဟောသောအခါ ဂင်္ဂါဝါဠု သဲစုမက ပွင့်တော်မူသောဘုရားရှင်တို့ တရားဟောသောအခါ မူလဘာသာ မာဂဓဘာသာ အရိယဘာသာဖြစ်သော 'ပါဠိဘာသာ'ဖြင့်သာ ဟောတော်မူသောထုံးကို နှလုံးပြု၍ 'ပါဠိဘာသာ'ဖြင့်သာ ဟောတော်မူခြင်းဖြစ်သည်။

၁၉၂၃ - ၁၉၆၇ ဝေပုလ္လတောင် ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၂၃ ခု (၁၂၈၄ ခုနှစ်) ဝေပုလ္လတောင်ရောက်သည့် အခါမှစ၍ အေဒီ ၁၉၆၇ ခု (၁၃၂၈ ခုနှစ်)တိုင်အောင် နှစ်ပေါင်း ၄၅ နှစ်အတွင်း အေဒီ ၁၉၅၅ ခု (၁၃၁၇ ခုနှစ်)၌ ကာလဒေသ မငြိမ်မသက်ဖြစ်၍ ရန်ကုန်မြို့ ဒေါ်ကြီးကြီးခြံအတွင်း ခေတ္တ ဝါဆိုကျောင်း၌ တစ်ဝါ သီတင်းသုံးသည်မှ တစ်ပါးကြွင်းသော ၄၄ ဝါကား ဝေပုလ္လတောင်၌သာ အမြဲသီတင်းသုံးတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၅၅-၅၆ )

## ဝေပုလ္လတောင်ဆရာတော်ဘုရားကြီး သီတင်းသုံးရာဌာန

ကျေးဇူးရှင် ဝေပုလ္လတောင် ဆရာတော်ဘုရားကြီး သီတင်းသုံးရာဌာန ဝေပုလ္လတောင်ကား သာသနာသက္ကရာဇ် ၂၃၅ ခုနှစ်၌ အရှင်သောဏမထေရ် အရှင်ဥတ္တရမထေရ်တို့ သာသနာပြုကြွလာရာ ဒုတိယ သုဝဏ္ဏဘူမိ သုဓမ္မဝတီ သထုံပြည်အတွင်းဖြစ်၍ ထိုအရှင်နှစ်ပါးတို့ သီတင်းသုံးကာ သာသနာပြုခဲ့ဖူးသော 'ဓမ္မသောကာရာမ - ဓမ္မရသ' ကျောင်းတိုက် ဟောင်းနေရာဖြစ်၏ဟု ယူဆကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၅၉)

## ဝေပုလ္လတောင်အကြောင်း



(မှတ်ချက်) သီရိဓမ္မာသောကမင်းမှစ၍ ယုဂန္ဓမင်း လက်ထက်တော်သို့ ရောက်သောအခါ သုဓမ္မဝတီမြို့သည် ဥယျာဉ်ဗိမာန် လယ်ယာကိုင်းကျွန်းနှင့်တကွ အနောက်မျက်နှာက မြို့ရိုးကြီးပါ ပင်လယ်ကမ်းပြိုရာသို့ ပါသွားသဖြင့် မင်းနှင့်တကွ မြို့သူမြို့သား ဆင်းရဲသားအပေါင်းတို့သည် ဒုက္ခကြီးစွာရောက်သည့်အတွက် ယုဂန္ဓမင်းသည် စိတ်တော်မကြည်မလင်သဖြင့် ရာဇာဘိသေကကို မခံသေးဘဲ နှစ်ကျိပ်ရှစ်ဆူဘုရားတန်ဆောင်းတွင် ဥပုသ်ဆောက်တည်၍နေရာ ပင်လယ်ကမ်းပြိုရာမှာ ရှေးအခါ ငါတို့ဘုရားအလောင်းဧတရဋ္ဌဟင်္သာမင်းဖြစ်စဉ် အခြွေအရံ ဟင်္သာပေါင်းငါးရာနှင့်တကွ သမုဒ္ဒရာကို ဖြတ်သန်း၍ ပျံရာတွင် လေမုန်တိုင်း ပြင်းစွာတိုက်ခတ်သဖြင့် သမုဒ္ဒရာသို့ ကျမည်ရှိရာ ဘုရားလောင်း ဟင်္သာမင်း၏ တန်ခိုးကြောင့် သိကြားမင်းသည် ဝေပုလ္လတောင်မှဖြစ်သော ပတ္တမြားရှင်ကို ယူ၍ ပစ်ချသောအခါ သောင်ကျွန်းပေါ်ထွန်းလာသဖြင့် ၎င်းသောင်ကျွန်းပေါ်၌ နားနေရသည့်အတွက် ဟင်္သာအပေါင်း ငါးရာနှင့်တကွ ဘုရားလောင်းဟင်္သာမင်းသည် ချမ်းသာရာရလေသည်။

၎င်းပတ္တမြားရှင်သည် သဲသောင်၌မြုပ်၍နေရာမှ ယုဂန္ဓမင်းလက်ထက် သမုဒ္ဒရာကမ်းပြို၍ ပတ္တမြားရှင်ရှိသောနေရာသို့ ရောက်သဖြင့် ပတ္တမြားရှင်ပေါ်လာသောအခါ အကောက်ဝန်များတွေ့၍ ဥပုသ်စောင့်နေသော ယုဂန္ဓမင်းအား ဆက်သကြလေ၏။

ထိုအခါ ယုဂန္ဓမင်းသည် ငါ၏ ပါရမီ ပုညိဒ္ဓိကြောင့် ဤဝေပုလ္လပတ္တမြားရှင်ကို ရပေသည်ဟု အားရ နှစ်သက်တော်မူလှသဖြင့် ဤတောင်ကိုလည်း ဝေပုလ္လပတ္တမြားရှင်ကို ရရာဌာနဖြစ်သောကြောင့် ဝေပုလ္လတောင် တွင်စေဟု အမိန့်တော် သတ်မှတ်သောနေ့ကစ၍ ဝေပုလ္လတောင်ဟု ခေါ်ဝေါ်ကြလေသတည်း။

ယခုအခါ ကာလရှည်လျားသဖြင့် ၎င်းအမည်ကွယ်ပျောက်နစ်မြုပ်နေရာ သာသနာတော်စောင့်နတ်များပူးဝင်၍ ပြောကြားသည့်အလား လူတို့၏နှုတ်များမှာ ဝေပုလ္လတောင်ဟု ထင်ရှားဖြစ်လာပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၇၁-၇၂)

## ဝေပုလ္လတောင် နှစ်ကျိပ်ကိုးဆူစေတီ

သုဝဏ္ဏဘူမိ သုဓမ္မဝတီ ဒုတိယနန်းစံ သောဏုတ္တရမင်း လက်ထက်တော်အခါ ဓမ္မရက္ခိတ ရဟန္တာအရှင်မြတ်သည် သီဟိုဠ်ကျွန်းမှ မြတ်စွာဘုရား၏ သရီရဓာတ်တော် နှစ်ကျိပ်ရှစ်ဆူကို ပင့်ဆောင်၍ လာသဖြင့် ဝေပုလ္လတောင် (ဓမ္မသောကာရာမ - ဓမ္မရသ) ကျောင်းတိုက်ကြီးအတွင်း အရှေ့မျက်နှာ တောင်ထိပ်ပေါ်တွင် ဓာတ်တော်နှစ်ကျိပ်ရှစ်ဆူတို့၏ အထိမ်းအမှတ်ဖြင့် ရုပ်ပွားတော် နှစ်ကျိပ်ရှစ်ဆူတို့ကို ဂဝံကျောက်ဖြင့် ထုလုပ်၍ ပလ္လင်အမြင့် ငါးတောင်မြေမှ မြင့်ပြီးလျှင် အရပ်လေးမျက်နှာတို့တွင် တစ်မျက်နှာ တစ်မျက်နှာ၌ ရုပ်ပွားတော် ခုနစ်ဆူစီထား၍ အလယ်မှာမြင်းမိုရ်တောင်သဏ္ဌာန် အုတ်ပြာသဒ်ပြုလုပ်၍ မိုးရေခံတန်ဆောင်းဆောက်လုပ်ပြီးလျှင် တည်ထားကိုးကွယ်ကြလေသည်။ ယခု ထက်တိုင် ကာလရှည်လျား၍ ဘုရားပျက်သော်လည်း (နှစ်ကျိပ်ရှစ်ဆူဘုရား၊ နှစ်ကျိပ်ရှစ်ဆူကုန်း) ဟု ခေါ်ဝေါ်ကြလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၇၃)

ထိုပျက်ပြား၍နေသော နှစ်ကျိပ်ရှစ်ဆူ စေတီတော်ဟောင်းကို ဂဝံအုတ်တို့ဖြင့်ပြုလုပ်၍ မုခ်ပေါင်း ကူးပြီးလျှင် မုခ်အတွင်း ရှစ်မျက်နှာတို့၌ စကျင်ကျောက်တို့ဖြင့် ထုလုပ်အပ်သော နှစ်ကျိပ်ရှစ်ဆူ ရုပ်ပွားတော်တို့နှင့် ဤကမ္ဘာ၌ပင် ပွင့်တော်မူလတ္တံ့သော အရိမေတ္တေယျဘုရား ရုပ်ပွားတော်ကိုပါ ထုလုပ်၍



နှစ်ကျိပ်ရှစ်ဆူတို့ကို ထည့်သွင်းပြီးလျှင် အသစ်ပြုပြင်၍ စေတီတည်ထားကိုးကွယ်ရန် ရန်ကုန်မြို့ ကုန်ဈေးတန်း ငါးထပ်ကြီးဘုရားဒါယကာ သမာဓိမြို့ဝန် ရွှေတိဂုံဆရာ ဂေါပကလူကြီး ဦးဘိုးအောင်၊ ကုန်ဈေးတန်း ဝေဠုလ္လတောင်(တုလွတ်ဝေယန်) အုတ်ကျောင်းအကြီး ဒေါ်သိန်းမေ၊ ၎င်းမြို့ ဘုန်းကြီးလမ်း အဂ္ဂမဟာပဏ္ဍိတဘွဲ့ခံ ဝေဠုလ္လတောင် သာသနောဒယ သိမ်ကြီးဒါယကာ ဦးဖြေ၊ ၎င်းမြို့ မောင်ဂိုမာရီလမ်း ဓမ္မသုခဆေးတိုက်ရှင် ဆရာခြုံတို့က ဦးစီးဦးကိုင်ပြုလုပ်ပြီးလျှင် အခြားသော ဒါယကာ ဒါယိကာမတို့ကိုလည်း တတ်စွမ်းသမျှ ကုသိုလ်ပါဝင်စေလျက် စီမံဆောင်ရွက် လုပ်ကိုင်ကြသဖြင့် ပြီးစီးအောင်မြင်ခြင်းသို့ ရောက်ခဲ့သည်။

ဤနှစ်ကျိပ်ရှစ်ဆူ စေတီပေါင်းအကြောင်းနှင့် ဝေဠုလ္လတောင် ဒေါ်ဝေါခြင်းအကြောင်းကို မှန်ရာဇဝင်ကို သိကျွမ်းနားလည်သော မှန်ဘုန်းတော်ကြီးများထံမှရသည်ဟု မဟာပညာဗလ ဦးကြီးဖေက မှတ်တမ်းတင်ခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၇၄)

## ရုပ်ကလာပ်တော်မှ သွေးစိမ်းရှင်ရှင် ထွက်ခြင်း

၁၉၆၈ ဘုန်းဘုရားကြီးသည် သက်တော် ၈၅ နှစ် အေဒီ ၁၉၆၈ ခု၊ ဧက်တင်ဘာလ ၂ ရက်၊ တနင်္လာနေ့ (သက္ကရာဇ် ၁၃၃၀ ပြည့်နှစ်၊ တော်သလင်းလဆန်း ၁၁ ရက်နေ့)နေ့လယ်အချိန်တွင် ခန္ဓာဝန်ချတော်မူသည်။

လွန်တော်မူပြီး သုံးရက်အကြာ ရုပ်ကလာပ်တော်၏ ဝမ်းဗိုက်ကို ခွဲကြည့်ရာ သွေးစိမ်းရှင်ရှင်ထွက်သည်ဆို၏။

ရုပ်ကလာပ်တော်ကို ၇ ရက်မျှ အပူဇော်ခံထားရှိပြီး မီးသဂြိုဟ်ရာ မိုးတွင်းကာလ သဲသဲမဲမဲရွာနေခိုက် မီးငြိမ်းသွားခြင်းလုံးဝမရှိ။ တောတောင်တစ်ခုလုံး နံ့သာရနံ့များ သင်းပျံ့မွှေးကြိုင်နေ၏။ ပရိသတ်များပြားသည်မှာ ဝေဠုလ္လတောင်တစ်ခုလုံး ခြေချစရာပင်မရှိအောင် ပြည့်နေတော့၏။

(ကျမ်းကိုး၊ ဦးကြီးဖေ၊ မဟာပညာဗလ၊ ဝေဠုလ္လတောင်ဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိကထာ၊) (ကျမ်းကိုး၊ ဘုန်းပွင့်ထွန်း၊ ဝေဠုလ္လတောင်ဆရာတော်ဘုရားကြီး၏ ဩဝါဒ၊ ပါရမီမဂ္ဂဇင်း) (ကျမ်းကိုး၊ ဖိုးဒေါင်းသား၊ ဝေဠုလ္လတောင် ဘုန်းဘုရားကြီး ဦးကောသလ္လ၊ ဂန္ဓီရမဂ္ဂဇင်း)

တောဝိဋ္ဋရဟန္တာ ဟုဆိုကြသော

# သာသနာပြုအကျော် ပြည်မြို့ နိဗ္ဗန္ဓဆရာတော်

အေဒီ ၁၈၈၆ – ၁၉၇၆ ( ၁၂၄၈ – ၁၃၃၈ )





ပါဠိဘာသာဖြင့် ရေးထားသော ကျမ်းစာများကို တွေ့လျှင်ဖတ်ရမှာ ကြောက်သဖြင့် ကျွန်ုပ်တို့သည် ရှောင်ပြေးနေကျပင်ဖြစ်ပါသည်။ ရေဆန်ကိုဆန်၍ ကူးခတ်ရသည်မှာ ခက်ခဲပင်ပန်းလှပါသည်။ သို့သော် ဘဝသည် ရေစုန်မဟုတ်၊ ရေဆန်ဖြစ်သည်ဟု မကြာခဏ တွေးမိတတ်ပါသည်။ ထိုအခါ စောစောက ကြောက်နေမိသော စာတို့ကို ကြိုးစား၍ ဖတ်လာမိခဲ့ပါသည်။

တစ်နေ့သောအခါ ကျွန်ုပ်သည် ပြည်မြို့၊ နိဗ္ဗိန္ဒဆရာတော်ဘုရားကြီး ရေးသားတော်မူသည့် သိက္ခာသုံးပါး ပြရာကျမ်းကို ဖတ်မိရာ လက်ကမချမိလောက်အောင်ပင် စွဲလမ်းမိပါတော့သည်။ အတွေးရှင်းရှင်း အရေးရှင်းရှင်းဖြင့် သေမင်းမမြင်နိုင်သောအရပ်အထိ စာဖတ်သူကို စွဲဆောင် ခေါ်ယူသွားတတ်သော စွမ်းရည်ထူးကြောင့် ထိုစာအုပ်ကလေးသည် ကျွန်ုပ်မျက်စိအောက်မှ အပျောက်မခံနိုင်သော စာအုပ်ထူးကလေးဖြစ်လာပါတော့သည်။

(ကျမ်းကိုး။ ပြည်မြို့ နိဗ္ဗိန္ဒဆရာတော်ကြီးကိုယ်တိုင် စီရင်ရေးသားတော်မူသော ထေရုပ္ပတ္တိကား စာပေဝါသနာအိုးတိုင်း မလွတ်တမ်းဖတ်သင့်သော အတ္ထုပ္ပတ္တိထူး၊ ပုဂ္ဂိုလ်ထူးဖြစ်ပါသည်။ ကျွန်ုပ်ကား အကြိမ်တစ်ရာမကဖတ်ရှုပြီးဖြစ်ရာ အလွတ်ပင် ရမတတ် ဖြစ်နေပါတော့သည်။ အောက်တွင်ရှုပါ။

ထိုကျမ်းအရ မမျှော်လင့်ထားသော ကြည်ညိုဖွယ်ရာ မဟာရုပ်ပုံလွှာတစ်ခုကို ဖတ်ရှုရပါသည်။ ထိုဆရာတော်အား တေဝိဇ္ဇရဟန္တာဟူ၍ မှတ်တမ်းတင်ထားသည်တွင် ဖတ်ရှုမှတ်သားရပါသည်။

## မွေးဖွားရာ ဇာတိ

ဆရာတော်သည် မြေဇာကျွန်းရွာသားဖြစ်လေသည်။ မြေဇာကျွန်းဟူသော ရွာကလေးသည် မိုးညိုမြို့နယ်မှာရှိလေသည်။ ဆရာတော်၏ မိဘတို့မှာ ကိုင်းသမားတို့ဖြစ်လေသည်။

နိဗ္ဗိန္ဒဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ရေးသားတော်မူသော ထေရုပ္ပတ္တိနိဒါန်းအရ ဆရာတော်ဘုရားကြီး၏ မဟာရုပ်ပုံလွှာကို လေ့လာတွေ့ရှိရပါသည်။

၁၈၈၆ သာယာဝတီခရိုင် မိုးညိုမြို့နယ်၊ ဧရာဝတီမြစ်အနီး မြေဇာကျွန်းခေါ် ရွာကြီး၌ အေဒီ ၁၈၈၆ ၊ နိုဝင်ဘာလ ၅ ရက်၊ (၁၂၄၈ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၀ ရက်) သောကြာနေ့ နံနက် စက်နာရီ ၈ နာရီ အချိန်တွင် ဖွားမြင်တော်မူ၏။ ခမည်းတော် မယ်တော်များမှာ ဦးကြာညို ဒေါ်လုံမတို့ဖြစ်ကြပါသည်။

(ကျမ်းကိုး။ မဇ္ဈိမစရိယ ဦးဌေးလှိုင် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ၁၉၉၃ ခု၊ နဝမအကြိမ်၊ စာ၊ ၃၆၀)

## ငယ်စဉ်က ဝဲပေါက်သောကြောင့် လောကကြီးကို ကြောက်လာပုံ

ဆရာတော် (၁၀)နှစ်သားအရွယ်က ဝဲပေါက်ပြီးနောက် လောကကြီးကို ကြောက်လာပုံကို ဆရာတော်က အောက်ပါအတိုင်းပြန်ပြောပါသည်။

သာယာဝတီခရိုင် မိုးညိုမြို့နယ် ဧရာဝတီမြစ်အနီး မြေဇာကျွန်းဟူသော ရွာကြီးတစ်ရွာရှိ၏။ ၎င်းရွာကြီးမှာ အဖေ ဦးကြာညို၊ အမိဒေါ်လုံမတို့မှ မွေးဖွား၍ ကိုင်းသမားတို့ထုံးစံအတိုင်း ဆေးခင်းများလုပ်ကိုင်ကာ မိဘနှစ်ပါးတို့ကို ပြုစုကျွေးမွေးကြသဖြင့် ၁၀ နှစ်သားအရွယ်သို့ ရောက်လတ်သောအခါ အလွန်ဆိုးဝါးသော ဝဲရောဂါ



များ ပေါက်ရောက်လာသဖြင့် ပျောက်ကင်းစေတတ်သော ဆေးဝါးများဖြင့် အမိက ကုသငြားသော်လည်း ပျောက်ကင်းခြင်းမရှိ၍ အမိကပြောသည်မှာ အမောင်မင်း၏ ဝဲရောဂါတို့သည် တစ်စတစ်စ တိုးပွား၍လာပါက အမူအရာမကောင်းဘဲ နူနာများ ဖြစ်တတ်သည်။ နူနာရောဂါဖြစ်ပါက အများလူသားတို့နေထိုင်တဲ့ ရွာထဲမှာမနေရဘဲ ရွာပြင်ဘက်မှာ တဲအိမ်ကလေးတစ်ခုနှင့် နေရလိမ့်မည်ဟု အမိပြောဆိုဆုံးမသော အခါ ငါသည်ကား ဒုက္ခများမြောင် လူတို့ဘောင်၌ နေမည်ဆိုပါက ဝဋ်ဒုက္ခအမျိုးမျိုးနှင့် တွေ့ရမှာအမှန်ဖြစ်ပေသည်ဟု ထိတ်လန့်ခြင်း သံဝေဂဉာဏ် ဖြစ်ပေါ်လာသဖြင့် လောကလူ့ရွာ၌ မနေချင်တော့ဘဲ သာသနာတော်ဝန်ထမ်း ရဟန်းအဖြစ်ကို တောင့်တ လေ၏။

အထက်ပါ စကားတို့မှာ ဆရာတော်ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါသည်။ ဆရာတော် လောင်းလျာ၏ တောင့်တမှုတို့သည် တောင့်တသော်လည်း ကိစ္စတို့သည် ချက်ချင်းဖြစ်မလာသေး။ ကာလကို စောင့်ရသေးသည်။ ထို့ကြောင့် ဆရာတော်သည် မြေဇာရွာကျောင်း ဘုန်းကြီးထံမှာ ငယ်စဉ်အခါ စာသင်ခဲ့ရလေသည်။ ဤတွင်လည်း ထူးခြားသောဖြစ်ရပ်တစ်ခု ဖြစ်လာပြန်လေသည်။

တောင့်တပြီးနောက် မြေဇာရွာကျောင်းဘုန်းကြီးထံ ကျောင်းသားအဖြစ်နှင့် ပညာသင်ကြားရာ အဘိဓမ္မာသင်္ဂြိုဟ်ကျမ်းကို ဂရုတစိုက်သင်ကြား၍ နေ့ခိုက် စိတ်စွဲ လန်းခြင်းအားကြီးသဖြင့် ညအိပ်တဲ့အခါမှာ ခြေရင်းနားက မီးထွန်းထားသလို တစ်ခါ တစ်ခါ ဖြစ်၍နေသော် ဘယ့်နှယ်လဲ ငါ၏ခြေရင်းမှာ ဘယ်သူလာ၍ မီးထွန်းသလဲဟု ထင်မှတ်သဖြင့် ထ၍စမ်းသပ်သောအခါ ပျောက်၍သွားလေသည်။ ဤသို့ မကြာမကြာ ပေါ်ပေါက်လာသော်လည်း တရားသဘောရယ်လို့မသိပေ။ တစ်ရံရောအခါမှာ ညာဘက် လက်မတွင် ကြွက်နို့တစ်လုံးပေါက်သဖြင့် အမိကိုပြသောအခါ အမိက ကြွက်နို့ပေါက်လျှင် နူတတ်တယ်လို့ပြောသောကြောင့် မိမိတို့၏အိမ်နှင့် မျက်နှာချင်း ဆိုင်အိမ်မှာ ခြေတို လက်တို အနူကြီး တစ်ယောက်ရှိ၍ ၎င်းအနူကြီးကဲ့သို့ လက်မတို သွားမှာ ကြောက်သဖြင့် ကြွက်နို့ ပေါက်သော လက်မကိုဆုပ်၍ အိပ်လေရာ သန်းခေါင် ယံအချိန်လောက်မှာနိုးသဖြင့် စိုးရိမ်မကင်းနှင့် လက်မတိုမှာစိုး၍ လက်နှင့်ဆုပ်ထား ရာ လက်မတိုသွား၍ ရှာမတွေ့ကြောင်းပြောပြလေ၏။ အမိက အဟုတ်မှတ်၍ အရေး တကြီး စမ်းသပ်ကြည့်သောအခါမှ လက်မကိုတွေ့၍ ငါ့သား လက်မ အရှိသားပါ ကလားဟု ပြောခါမှ လက်မပြန်၍ ပေါ်လာလေ၏။ ဤသို့တရားသဘောအတိုင်း ဖြစ်သည်ကိုလည်း တရားသဘောမှန်းမသိပေ။

## သာမဏေဘဝမှာပင် ဝိနည်းငါးကျမ်းကုန်ခဲ့၏

အထက်ပါ စကားတို့မှာ ဆရာတော်ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါသည်။ ဆရာတော် လောင်းလျာသည် ငါးနှစ်သားအရွယ်တွင် ရှင်သာမဏေအဖြစ်သို့ ရောက်လေသည်။ ထိုရှင်သာ မဏေဘဝမှာပင် ဝိနည်းငါးကျမ်း ကုန်ခဲ့လေသည်။ အံ့ဖွယ်ကောင်းလေစွ။

ဤကဲ့သို့ တောင့်တတဲ့စိတ် ဆန္ဒအတိုင်း တစ်ဆယ့်ငါးနှစ်သားအရွယ်သို့ ရောက်သော အခါ မိခင်၏မောင် ဦးလေးက မြေဇာရွာကျောင်း ဆရာတော်ထံမှာပင် ရှင်ပြုပေး သဖြင့် ရှင်သာမဏေအဖြစ်သို့ ရောက်ရသောအခါ အလွန်ဝမ်းမြောက်၏။ ၎င်းသာမဏေအဖြစ်မှာပင် သက်သတ်လွတ်စားခြင်း၊ ဖြိုးခြံခြင်းအမှုကို ပြု၍ပညာ



များကို ကြိုးစားခဲ့ရာ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ပါတိမောက်၊ ဝိနည်း ငါးကျမ်းတို့ကို သာမဏေဘဝနှင့်ပင် ကုန်ခြင်းသို့ရောက်ခဲ့လေသည်။ ဤကဲ့သို့ ပရိယတ္တိ ဓမ္မသင်ကြား၍နေသော်လည်း လူသူမနီး တောတောင်ကြီး၌ ကိုယ်တည်းဆုတ်ခွာ တစ်ယောက်တည်းနေမည် ဟူသောအကြံသည် မကြာခဏဖြစ်ပေါ်၍ သြော် ငါသည်ကား အလုံးစုံသောအရပ်ဌာနသို့ လှည့်လည်ကာ ကျက်စား၍ သစ်တစ်ပင်မှသစ်တစ်ပင်သို့ တောတောင်တစ်ခုမှ တောတောင်တစ်ခုသို့ သွားရပါမူကား ကောင်းလေစွ၊ ဤရဟန်း၏ အဖြစ်မျိုးကိုရခြင်းသည် အရတော်လေစွ။

## မြန်မာလို သီလပေးသော ဆရာတော်

အထက်ပါ စကားတို့မှာ ဆရာတော်ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါသည်။ ဆရာတော်၏ စိတ်တို့သည်ကား တောထွက်ရန်သာ အမြဲတောင့်တလျက်ရှိလေသည်။ သို့သော် တောမထွက်ဖြစ်ချေ။ စာကိုသာ လှည့်လည်သင်နေရပေတော့သည်။ ဤတွင် ထူးခြားသော အချက်တစ်ခုမှာ မြန်မာလို သီလပေးခြင်းဖြစ်ပါသည်။ ဆရာတော်၏ မူရင်းမှတ်စုကို အောက်တွင်ဖတ်ပါ။

သြော် ငါသည်ကား တောင်စဉ်တောင်ဖျား ချောက်မြောင်ကြားတို့၌ ထိတ်လန့်ခြင်းတရား စွန့်ပယ်ရှား၍ အဖော်မမှီး တစ်ယောက်ထီးတည်း သွားရပါမူကား ကောင်းလေစွ၊ ဤရဟန်း၏အဖြစ်မျိုးကို ရခြင်းသည်အရတော်လေစွ။

သြော် ငါသည်ကား ကောက်ကျစ်စဉ်းလဲ စိတ်မိုက်စိတ်မွဲ စောင်းတီးယောက်ျား စောင်းသမားကဲ့သို့ မလျှော့မတင်း စောင်းကြိုးညင်းကာ ဘယ်ခါကာလ ဘယ်အချိန်ကျမှ ကမ္မဋ္ဌာန်းတရားကို အားထုတ်ရပါအံ့နည်းဟု ဤကဲ့သို့ အကြံအစည်များသည် လွန်စွာဖြစ်ပြားသော်လည်း ရဟန်းဝါနှစ်ဝါအရတွင် ပခုက္ကူဆရာတော် ဦးဂန္ဓထံသို့လည်းကောင်း၊ မန္တလေးဘုရားကြီး တိုက်ဆရာတော် ဦးဉာဏထံသို့လည်းကောင်း၊ ပညာသင် ရောက်သောအခါ သင်ကြား၍ထားသော ပရိယတ္တိအစွမ်းမာန်အဟုန် ဖုံးလွှမ်း၍လာသဖြင့် ငယ်ရွယ်စဉ်က တောထွက်မည်ဟု ကြံစည်ခဲ့သော စိတ်အစဉ်သည် ပျောက်ကွယ်၍သွားလေ၏။

ရဟန်းဝါ လေးဝါရသောအခါမှ တောထွက်ရန်စိတ်များပြန်လည်ပေါ်လာသဖြင့် ကိလေသာကို ခါတွက်တတ်သော ဓုတင်တရားများကို ကြိုးစား၍ အားထုတ်လေ၏။

ထိုအခါ စိတ်အကြံဖြစ်ပေါ်လာသည်မှာ ငါတို့ မြန်မာလူမျိုးများသည် မြတ်စွာဘုရားဆုံးမတော်မူသောတရားတော်ကို ပါဠိမြန်မာ နှစ်ဘာသာရောယှက်၍သာ သီလပေးခြင်း၊ သီလခံယူခြင်း ပြုလေ့ရှိကြသည်။

မြန်မာဘာသာ သက်သက်နှင့် သီလပေးခြင်း၊ သီလခံယူခြင်းမပြုကြပေ။ သို့အတွက် မြန်မာဘာသာသက်သက် သီလပေး၊ သီလယူရေးသားလျှင် ကောင်းလိမ့်မည်ဟု ကြံစည်မိခိုက် မြန်မာလို သီလပေးပုံကို ရေးသားလိုက်ရပေသည်။

၎င်းမြန်မာလို သီလပေးခြင်းကို ဆရာတော်ငယ်စဉ်ကပင် သီလခံယူကြသောအခါ မြန်မာလို ပေးလေ့များပါသည်။



အထက်ပါ စကားတို့မှာ ဆရာတော်ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါသည်။ ဆရာတော်သည် တောထွက်လိုသော်လည်း သပိတ်ပရိက္ခရာလွယ်စရာအိတ်များ လိုနေသေးသောကြောင့် တောမထွက်နိုင်သေးပေ။

ရဟန်းဝါ ခြောက်ဝါရသောအခါမှာ လူသူမနီး တောမြိုင်ကြီးသို့ ကိုယ်တည်းဆုတ်ခွာသွားလိုသော စိတ်အကြံသည် ပြင်းပြစွာဖြစ်ပေါ်လာသဖြင့် ပြည်မြို့၊ ပုထိုးကြီးဆရာတော်ကြီးအား မိမိ၏စိတ်အကြံကို လျှောက်ထားလေသောအခါ ပုထိုးကြီးဆရာတော်ဘုရားက ငယ်သေး၍ စိုးရိမ်မကင်းရှိသဖြင့် တားမြစ်ဆိုင်းငံ့ထားသောကြောင့် တောထွက်ရန်ကိစ္စကို အောင့်အည်းသည်းခံ၍ နေ့အခါမှာ ပဋ္ဌင်းငယ်များနှင့် သာမဏေများကို စာဝါများ သင်ကြားပို့ချပေးပြီး ဆိတ်ငြိမ်သော ညချမ်းအခါမှာ ကမ္မဋ္ဌာန်းတရားများ နှလုံးသွင်းရပေ၏။ ထိုသို့ နှလုံးသွင်းငြားသော်လည်း ဘာတစ်ခုမျှ ထင်မြင်ခြင်းကို မရခဲ့ပေ။ မရသော်လည်း တောထွက်ဖို့ရာ စိတ်အကြံကတော့မလျှော့ပေ။ မလျှော့သည့်အတိုင်း တောထွက်တော့မည်ဟု ဆင်ခြင်စဉ်းစားခိုက်မှာ တောနေရဟန်းဆိုတာ ခရီးသွားရသဖြင့် သပိတ်အိတ်ကလေး တစ်ခုပြည့်စုံရန် အလွန်ပင်စိတ်ပင်ပန်းခြင်း ဖြစ်၍နေခိုက် နေ့စဉ်မပြတ် ဆွမ်းရပ်ကာနေသော ရွာသစ် ရွာလယ်သမားဆရာကြီး ဦးသာပြောဆိုသူက ရွာသစ်ရွာသား ဒါယကာများနှင့် တိုင်ပင်ကာ သပိတ်ပရိက္ခရာ လွယ်စရာအိတ်များ ဝိုင်းဝန်း၍ လှူဒါန်းကြတော့မှ မိမိကြံစည်တဲ့အတိုင်း အောင်မြင်ခြင်းသို့ရောက်သဖြင့် ဝမ်းသာခြင်းဖြစ်ရပေသည်။

## နောင်တော်အား ကန်တော့၍ တောထွက်တော်မူခြင်း

အထက်ပါ စကားတို့မှာ ဆရာတော်ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါသည်။ တောထွက်ရန်လိုအပ်သောအရာများ ရလာသောအခါ ဆရာတော်သည် ရှိရှိသမျှသော သုတ်၊ ဝိနည်း၊ အဘိဓမ္မာကျမ်းစာအပေါင်းတို့ကို နောင်တော်ရဟန်းအား လှူဒါန်းလိုက်ပေတော့သည်။

၁၉၁၂ ထိုသို့ သပိတ်ပရိက္ခရာ လွယ်စရာ သပိတ်အိတ်များပြည့်စုံပြီး တောထွက်ရန် အချိန်တန်ပြီဟု ဆုံးဖြတ်ပြီးလျှင် အေဒီ ၁၉၁၂ နိုဝင်ဘာ ၁၆ ရက်၊ စနေနေ့ (၁၂၇၄ ခုနှ၊ တန်ဆောင်မုန်း လဆန်း ၈ ရက်) ညနေ ၅ နာရီအချိန်၌ သုတ္တန်ဝိနည်းအဘိဓမ္မာကျမ်းအပေါင်းကို စာပေပို့ချကာနေသောနောင်တော် ရဟန်းအား လှူဒါန်းခြင်းကို ပြုခဲ့ပေသည်။

အထက်ပါ စကားတို့မှာ ဆရာတော်ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါသည်။ ထိုသို့လှူဒါန်းပြီးနောက် နောင်တော်ရဟန်းကိုကန်တော့၍ ဆရာတော်သည် တောထွက်တော်မူခဲ့လေသည်။ ဤသို့တောထွက်တော်မူသောအခါ နောင်တော်ရဟန်းက ညီတော်ရဟန်းအား တောစပ်အထိ လိုက်လံပို့ခဲ့သေးသည်။ ထိုအခါ ညီတော် နောင်တော်တို့ ခွဲခွာရခါနီး ခံစားရပုံတို့ကို ဆရာတော်က အောက်ပါအတိုင်း ပြန်ပြောခဲ့ပါသည်။

ထိုနောက် ၅ နာရီအချိန်မှာပင် မိမိ၏သွန်သင်ရှေ့ပြေး အဆုံးအမပေးသော ဆရာတော်ဘုရားကို ဘဝများစွာ သံသရာက ပြစ်မှားမိသော ယုတ်မာညစ်ဆိုး အပြစ်မျိုးကို အားကုန်မာန်လျှော့ ပြန်ကာကန်တော့၍ ဗုဒ္ဓပြတ်စွာ စိတ်ထွေးယှာ၏ ချီးမွမ်းတော်မူအပ်သော လူသူမနီး တောမြိုင်ကြီးသို့ ယခုနေခါ ညချမ်းသာ၌ ရှင်သီရိ ဘွဲ့အမည်ရှိသော ရဟန်းငါသည် တစ်ယောက်တည်းသာ သွားပါတော့အံ့ဟု အမိဋ္ဌာန်ပြုကာ မိမိ၏



သီလကို သန့်သန့်ရှင်းရှင်း သုတ်သင်ခြင်းကိုပြုပြီးလျှင် ၅ နာရီခွဲအချိန်သို့ ရောက်သည်ရှိသော် ထွက်ဖို့ရာလမ်း ပုထိုးကြီးတောင်တန်းသို့ ညီနောင်နှစ်ပါး ထွက်ကာသွားကြသည်ရှိသော် တစ်ခဏလောက်နှင့် တောင်ထိပ်သို့ရောက်သဖြင့် အမည်တွင်ဆောင် ကြက်ထင်းတောင်၏ အနီးသို့ရောက်သောအခါ နေရီမှောင်သန်း အစ်ကိုရဟန်းနှင့် နှလုံးမသာခွဲခွာရသဖြင့် နောက်သို့တစ်ဖန် ပြန်ကြည့်ရှုသောအခါ ရင်၌ရှိပြား နှလုံးသားသည် နှစ်ဖြာထက်ခြမ်း ဖြန်းဖြန်းကွဲတော့မလို သောကပူပြင်းမီးလောင်ခြင်းသည် မကြာချက်ချင်းဖြစ်ပေါ်၍လာခဲ့၏။

ထိုသို့ မီးတောက် ပေါ်လာရောက်က မိမိကိုယ်ကို သွန်သင်ရှေ့ပြေးအဆုံးအမပေး၍ ဤသို့ စိုးရိမ်မကင်း ပူလောင်ခြင်းနှင့် ထွက်ခွာသွားရသည်ရှိသော် ကိုယ်သာနွမ်းညှိုး ဘာအကျိုးရှိတော့အံ့နည်း။ ရှေးသူတော်ကောင်း အရိယာအပေါင်းတို့သည် နိဗ္ဗာန်မြော်ပြီး တောထွက်သောနည်းကို ဆင်ခြင်၍ ပြည်မြို့နှင့် မနီးမဝေးနှစ်မိုင်လောက်ကွာဝေးသောအရပ်သို့ ရှေးရှု၍ ရှေးသူတော်ကောင်း သူမြတ်လောင်းတို့မွေ့လျော်ရာဖြစ်သော တောင်စဉ်တောင်တန်း ရီမှောင်သန်းသော တောအုပ်ကြီးသို့မှောင်မှောင်မည်းမည်း ခုနစ်နာရီခွဲအချိန်ရောက်ရှိလေ၏။

အထက်ပါစကားတို့မှာ ဆရာတော်ကိုယ်တိုင် ရေးမှတ်တမ်းဖြစ်ပါသည်။ တောထွက်သည်ဟူသော စကားအသုံးအနှုန်းကို ကြားခဲ့ဖူးသော်လည်း ကိုယ်တိုင်တောထွက်ဖူးသူမဟုတ်လျှင် တောထွက်စဉ်က ခံစားရပုံများကို ပြန်လည်ပြောကြားနိုင်မည်မဟုတ်ပါ။ ဆရာတော်ကြီးကား ပြန်လည်မှတ်တမ်းတင်ထားသဖြင့် ကျွန်ုပ်တို့စာဖတ်သူတစ်စုမှာ ကိုယ်တွေ့မှတ်တမ်းတစ်ခုကို အောက်ပါအတိုင်း ဖတ်ရှုခဲ့ရပါသည်။

မည်းမှောင်ရီသန်း တောင်စဉ်တောင်တန်းသို့ သာသာဖြည်းဖြည်း လျှောက်ကာလျှောက်ကာ တစ်ယောက်တည်း သွားသည်ရှိသော် ဟောင်းနွမ်းစုတ်ပြတ်သောကျောင်းပျက်ကလေးတစ်ခုကိုတွေ့လေရာ ကျောင်းအထက်သို့တက်သွား၍ အဖော်မမှီးတစ်ယောက်ထီးတည်း အာနာပါနကမ္မဋ္ဌာန်းကို နှလုံးသွင်း၍နေလေ၏။

နံနက်မိုးသောက် အလင်းရောက်သောအခါ မျက်နှာသစ်ခြင်းငှာ ရေကိုရှာသည်ရှိသော် ထိုတောင်၏အဆုံး၌ ရေအိုင်ငယ်တစ်ခုကိုတွေ့၍ ရေစစ်ဖြင့် ရေကိုစစ်ပြီးလျှင် ခံတွင်းဆေးခြင်း၊ မျက်နှာသစ်ခြင်းကို ပြုပြီးလျှင် အာနာပါန ကမ္မဋ္ဌာန်းကိုနှလုံးသွင်းပြန်လေ၏။

ဆွမ်းခံသောအခါ နီး၍လာသည်ရှိသော် တစ်အိမ်မှဖဲ တစ်အိမ်လဲ၍ ရပ်ထဲဝင်ကာဆွမ်းခံခြင်းငှာ သီလရှင်များနေထိုင်ပြားသည့် ရွာငယ်တစ်ခုသို့ဝင်၍ ဆွမ်းအလို့ငှာရပ်ကာရပ်ကာ သွားသည်ရှိသော် သဒ္ဓါရှင်လန်း ပေးလှူဒါန်းသော ဆွမ်းနှစ်ခွက်ကို ရလေ၏။

မပြည့်မစွက် ဆွမ်းနှစ်ခွက်နှင့် မျှတလုံလောက်ပုံ မရှိသေး၍ ရှေ့သို့ဆက်လက် ပွင့်လှသိမ်ကုန်းရွာဘက်သို့ လှမ်းထွက်သွားကာသွားသည် ရှိသော်လွန်စွာကြမ်းတမ်း ဆွမ်းနီကြီးနှစ်ခွက်ကိုရ၍ လေးခွက်ပေါင်းစုဆွမ်းအမှုဖြင့် မျှတလေပြီဟု နှလုံးသွင်း၍ ရွံ့ညွှံတို့ဆီး လမ်းခရီးသို့ လျှောက်ကာ လျှောက်ကာ လာခဲ့ပါသော် ခေတ္တခိုအောင်း သခ်မ်းကျောင်းသို့ မကြာခင်ရောက်သဖြင့် မျှတမည့်အရေးဆွမ်းဘုဉ်းပေးမည်ပြုသောအခါ သောက်ဖို့ရာရေမရှိသဖြင့် ရေအိုင်ငယ်သို့သွား၍



ချမ်းသာတိတ်ဆိတ် ထိုတည်ပင်ရိပ်မှာ ဆွမ်းစားရင်းထိုင် နိသီဒိုင်ကို ဖြန့်ကာခင်း၍ ဆွမ်းချည်းသက်သက် ဆားမဖက်ဘဲ မျှတအောင်ဘုဉ်းပေး၍နေရာ ငါးရက်လောက် အကြာ သီလရှင်များစွာတို့ သိကြသဖြင့် အသားမဖက် သစ်သီးသစ်ရွက်များကို လှူဒါန်းကြခြင်းကြောင့် သီလရှင်များ လှူဒါန်းသောဆွမ်းကို မျှတ၍ မိမိကိစ္စ အာနာပါနအလုပ် အားထုတ်နေရာ ၁၅ ရက် လောက်အကြာမှာ အာရုံနိမိတ် ပေါ်လာ သောအခါဟာ ငါ၏နှာသီးဝမှာ ဘာကြီးပေါ်လာပါလိမ့်မလဲဟု မဝေခွဲနိုင်သဖြင့် အင်ကြင်းမြောင်ဆရာတော်ဘုရားကြီးထံ သွား၍လျှောက်ထားရာ အင်ကြင်းမြောင် ဆရာတော်ဘုရားကြီးက ခွဲခြား၍ အမိန့်ရှိသောအခါမှ သေချာဂန သိရသဖြင့် ဆရာတော်ကြီးကို ယုံကြည်အားကိုး၍ ကျေးဇူးတင်ပါသတည်း။

## အင်ကြင်းမြောင် ဆရာတော်ဘုရားကြီး၏ အဲ့ဖွယ်များ

အထက်ပါ စကားတို့မှာ ဆရာတော်ကိုယ်တိုင် ရေး မှတ်တမ်းဖြစ်ပါသည်။ စိတ်တို့သည် တစ်ချိန်နှင့်တစ်ချိန်မတူကြပေ။ ရွယ်နုချိန်မှာ ရွယ်နုသောအတွေးကိုတွေး၏ ရွယ်ရင့်သောအခါ ရွယ်ရင့်သော အတွေးကို တွေးကြပေတော့သည်။ ပရိယတ္တိမာန်သည် အလွန်ခက်ထန်သည်။ ကြီးလျှင်ကြီးမှန်းသိမှ ကောင်းသည်။ ငယ်လျှင်လည်း ငယ်မှန်းသိမှကောင်းသည်။ သတိထားကြပါဟု ဆရာတော်က အောက်ပါ အတိုင်း ဖွင့်ဟခဲ့ပါသည်။

ရှေးအခါက အင်ကြင်းမြောင်ဆရာတော်ဘုရား ထင်ရှားပင် ရှိငြားသော်လည်း ၎င်းဆရာတော်ဘုရားသည် ငါတို့နှင့်ဘာထူးမှာလဲ ငါတို့လည်း ပရိယတ္တိကျမ်းအရှိကိုသိသည်။ ဆရာတော်ဘုရားသည် ၎င်းကျမ်းအတိုင်းသိသည်၊ ဘာထူးမှာလဲဟု ထင်မှတ်၍ ပရိယတ္တိမာန်ခံသဖြင့် ၎င်းဆရာတော်ကြီးထံ မသွားဘဲ နေခဲ့လေသည်။

ပရိယတ် ပဋိပတ်ခွဲခြားထားသဖြင့် ပရိယတ်တတ်ရုံနှင့် နားမလည်နိုင်ပါ။ ပဋိပတ်ကိုလည်း ကျွမ်းကျင်အောင် အားထုတ်မှကောင်းသည်။ ပရိယတ္တိမာန်ဟာ အလွန်ခက်ထန်ပါသည်။ ကြီးမှန်းမသိ ငယ်မှန်းမသိ ဖြစ်တတ်ပါသည်။ ကြီးလျှင် ကြီးမှန်းသိမှကောင်းသည်။ ငယ်လျှင် ငယ်မှန်းသိမှကောင်းသည်။ သတိထားကြပါ။

၎င်းနောက် မိမိမှာ ပေါ်ပေါက်လာသမျှ တရားကိစ္စ အဝဝကို ဆရာတော်ကြီးအား လျှောက်ထားသဖြင့် ဆရာတော်ကြီး အမိန့်ရှိသည့်အတိုင်း အားထုတ်ခဲ့ရာ ၎င်းဆွမ်းများဖြင့် လေးငါးလမျှတ၍ နေထိုင်ခဲ့ရာ ငါးလကျော် ခြောက်လခန့်အကြာ နွေရာသီအခါ ရေအမှုကြောင့် ဒကာတစ်စုတို့က မကရွတ်ခေါ် ကုန်းမြေပေါ်မှာ သက်န်းမိုး ကျောင်းတစ်ဆောင်ဆောက်လုပ်လှူဒါန်းကြ၍ ၎င်းကျောင်းသို့ ပြောင်းရွှေ့ကာ နေခိုက်မှာ ၃ ရက် ၄ ရက်အကြာ မီးလောင်စာဖြစ်၍သွားသဖြင့် အားလုံး ဒါယကာအများ စိတ်ချမ်းသာခြင်းမဖြစ်ကြရ။ နောက်ထပ် တစ်ဖန် စကြံကျောင်း တစ်ဆောင် ထပ်မံဆောက်လုပ် လှူဒါန်းကြပြန်သဖြင့် ၎င်းစကြံကျောင်း၌ မျှတကာ နေစဉ် တန်ခူးကာလ ခါသမယ ရောက်သောအခါ ပြည်မြို့ပေါ်ရှိ ကျောင်းဆရာကြီး ဦးရာကျော်ဆိုသူက သူ၏ စိတ်ထားအရ ၎င်းကျောင်းကုန်းကို နိဗ္ဗိန္ဒဟု တိုင်စေ့အောင် ရေးသား၍သွားသဖြင့် ယခုတိုင် နိဗ္ဗိန္ဒဟု အမည်တွင်ရသတည်း။

၁၉၁၃ နိဗ္ဗိန္ဒဟူသော အမည်သည် အေဒီ ၁၉၁၃ (၁၂၇၅ ခုနှစ်)မှစ၍ ဖြစ်ပေါ်လာခဲ့၏။



**အင်ကြင်းမြောင်ဆရာတော်ဘုရားကြီးနှင့် ၄ နှစ်မျှသာ နေလိုက်ရပါသည်။ ဆရာတော်ဘုရားကြီးပျံလွန်တော်မူသောအခါ အားကိုးရာမဲ့ဖြစ်သဖြင့် မြန်မာနိုင်ငံ တစ်ဝန်းလုံး ကမ္မဋ္ဌာန်းဘက်ဆိုင်ရာတို့ကို လိုက်၍စုံစမ်းလေ၏။**

အင်ကြင်းမြောင်ဆရာတော်ကြီး ပျံလွန်တော်မူသောအခါ ပြည်နိဗ္ဗိန္ဒဆရာတော် ရှင်သီရိသည် တစ်တောထွက်ဝင် တစ်တောင်ဝင်၍ ကမ္မဋ္ဌာန်းဘက်ဆိုင်ရာများကိုလိုက်၍ စုံစမ်းတော်မူခဲ့လေသည်။ ဤတွင် ဆရာတော်သည် ပြည်မှရန်ကုန်သို့ရောက်၏။ ပဲခူးသို့လည်းရောက်၏။ သထုံသို့လည်းရောက်၏။ မင်းကွန်းဆရာတော်ဘုရားကြီးထံလည်းရောက်၏။ မော်လမြိုင်သို့လည်းရောက်၏။ ကျိုက်ထိုသို့လည်း ရောက်၏။ သေကျွတောင် ဦးတိလောကထံသို့လည်းရောက်၏။ ပျဉ်းမနားသို့လည်း ရောက်၏။ လယ်တီဆရာတော်ထံသို့လည်း ရောက်၏။ မန္တလေးသို့လည်း ရောက်၏။ စစ်ကိုင်းဘက် ယောသိတာဝံ ဆရာတော်ဘုရားကြီးထံလည်း ရောက်၏။ မဟာဂန္ဓာရုံဆရာတော်ဘုရားထံလည်းရောက်၏။ ထိုအချက်တို့ကို ဆရာတော်ကိုယ်တိုင် အောက်ပါအတိုင်း ပြန်လည်မိန့်ကြားခဲ့ပါသည်။

ဆရာတော်ဘုရားကြီးသည် အလောင်းတော်ကို သဂြိုဟ်ပြီးသည့် နောက်များမကြာမီ သူရိယ သုမန ဩဘာသ တပည့်သုံးပါး ဒါယကာတစ်ယောက်နှင့် ပြည်မြို့မှ ရန်ကုန်သို့ ထွက်ခွာသွားရာ ရွှေတိဂုံဘုရားကို ဖူးမြော်ရန် ကုန်းတော်ပေါ်သို့ တက်၍ ဘုရားဖူး ခေတ္တနားနေပြီးနောက် ရထားအချိန်နီးကပ်၍ ပဲခူးမြို့သို့ ဆက်လက် သွားကြရာ ပဲခူးမြို့မှာ တစ်ညနား၍ ရွှေမော်ဓောဘုရားဖူးပြီး သထုံသို့ ဆက်လက် ရထားစီးသဖြင့် သထုံသို့ရောက်သောအခါ သထုံရွှေစာရံဘုရားကိုဖူးမြော်၍ အနည်းငယ် နားနေ ပြန်ရောက်နေသဖြင့် တပည့်သုံးပါးနှင့် ခွဲခွာခဲ့ကြပြီး ကပ္ပိယတစ်ယောက်သာ ခေါ်ဆောင်ကာ ဖြူးမြို့သို့ အရောက်သွားလေသော် ညနေချမ်းအခါ ဖြူးမြို့သို့ ရထားဆိုက်သဖြင့် သူဌေး ဦးသက် အိမ်မှာ ၂ ရက်ခန့် နားနေပြီး သေကျွတောင် ဦးတိလောကထံသို့ စုံစမ်းသွားရာ ဦးတိလောက ဖိုဝင်ခိုက်နှင့် ကြုံကြိုက်နေသဖြင့် ဖိုရုံကထွက်လာမှ တွေ့ရသောအခါ ဘာတစ်ခုမျှ မစုံစမ်းတော့ဘဲ အလွတ် အလ္လာပ သလ္လာပ စကားများကိုသာ ပြော၍ ပြန်ခဲ့လေ၏။

ထိုအခါ သူဌေး ဦးသက်က ဘာများစုံစမ်းခဲ့ပါသလဲ ဟုလျှောက်ထားရာ ဖိုရုံက ထွက်လာခိုက်ဖြစ်၍ ဘာကိုမျှ မစုံစမ်းခဲ့ပါကြောင်း ပြောသောအခါ သူဌေး ဦးသက်က လျှောက်ထားသည်မှာ အရှင်ဘုရား မကျေနပ်သေးပါက လယ်တီဆရာတော်ကြီးထံ ကြွပါလေ။ လယ်တီဆရာတော်ထံရောက်က ကျေနပ်ပါလိမ့်မည်ဟု လျှောက်ထားသဖြင့် ပျဉ်းမနားမြို့သို့သွား၍ လယ်တီဆရာတော်ဘုရားကြီး သီတင်းသုံးသော အင်ကြင်းမြိုင်တောရသို့ ရောက်လေ၏။

ထိုစဉ်အခါက လယ်တီဆရာတော်ဘုရားကြီးသည် ရွှေမြို့တော်သို့ တရားဟော သွားနေခိုက်ဖြစ်၍ မတွေ့ရသေးပေ။ တစ်ည အိပ်၍နေပြီး နောက်တစ်နေ့ သုံးနာရီ လောက်မှာ ပြန်ကြွလာလေ၏။ ဆရာတော်ကြီးကို စောင့်ဆိုင်း၍နေခိုက် ညအိပ် မက်မြင်မက်သည်မှာ မိမိဝတ်ထားသော သင်္ကန်းတို့သည် အားလုံးကုန် ဆွတ်ဆွတ်ဖြူ၍ နေသည်ဟု မြင်မက်၏။

ထိုအိပ်မက်အကြောင်းကို ကပ္ပိယအား ပြောကြားသောအခါ ကပ္ပိယက လျှောက်သည်မှာ တပည့်တော်လည်း အိပ်မက်မြင်သည်မှာ တပည့်တော်၏ ပါးစပ်ထဲက ထွက်လာတဲ့ကျီးတွေမှာ တစ်ကောင်မျှခေါင်းမပါဘဲ မြင်မက်ပါကြောင်း လျှောက်



ထားလေလျှင် ထိုအိပ်မက်ကို မဝေခွဲနိုင်ရှိ၍နေခိုက်မှာ ဆရာတော်ကြီး ပြန်ရောက်လာသဖြင့် သွား၍ကန်တော့ရာ ဆရာတော်ကြီးက ဘယ်ကပါလဲဟု မေးမြန်းရာ ပြည်ကဖြစ်ပါကြောင်းနှင့် ဆရာတော်ကြီး မြန်အောင်မြို့သို့ တရားဟောကြွစဉ်က အင်ကြင်းမြောင်ဆရာတော်ဘုရားနှင့် အတူသင်္ဘောမှာလာ၍ ကန်တော့ပါကြောင်းတို့ကို လျှောက်ထားတော့မှ၊ အေးသိပြီကွာ၊ မင်းလျှောက်ချင်တာကို ညကျမှလာ၍လျှောက်ဟု အမိန့်ရှိသဖြင့် ပြန်ခဲ့ရာ နံနက်မိုးသောက် ဆန်ပြုတ်သောက်ပြီးခါမှ မိမိလျှောက်ချင်တာကို သွား၍လျှောက်ရာ၊ စိတ်ကျေနပ်လောက်အောင် အမိန့်ရှိသဖြင့် ရှုပ်ထွေး၍နေသော အရှုပ်များလည်း ရှင်းလင်းသွားလေ၏။

ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာအကြောင်းရှင်းလင်း၍ ပြတော်မူ၏။ နောက်ရက်များ၌ မိမိအလိုရှိရာ လျှောက်ထားသောအခါ၊ ကျေနပ်လောက်အောင်ပင် အမိန့်ရှိတော်မူဖြင့် ၄ ရက် ၅ ရက်လျှောက် ထားပြီးသောအခါ၊ မန္တလေးက ဆရာတော်ကြီးကိုပင့်လျှောက်သဖြင့် ဆရာတော်ကြီးနှင့်အတူပါသွား၍၊ လယ်တီစံကျောင်းမှာ တစ်ညအိပ်ပြီးနောက် ငယ်စဉ်က စာတက်ခဲ့ဘူးသော ဘုရားကြီးတိုက် တိုက်ကြပ်ဆရာတော်ဘုရား ဦးဉာဏအား သွား၍ကန်တော့ပြီးနောက်၊ စစ်ကိုင်းဘက် ယောသိတာဝံ ဆရာတော် ဘုရားကြီးထံ ၄ - ၅ ရက်နေ၍ စုံစမ်းရာ၊ ၎င်းဆရာတော်ဘုရားကြီးက အဆုံးအမပေးသော တရားများကိုနာ၍နေစဉ်၊ ငါတို့ ဥပဇ္ဈာယ်ဆရာတော် အမိန့်ရှိဘူးတာကတော့ ယောသိတာဝံ ဆရာတော်ကြီးသည် ရဟန်းကိစ္စပြီးတဲ့အနေမျိုး အမိန့်ရှိဘူးပါသည်။ ယခုဆိုဆုံးမတဲ့စကားကတော့ အကြွမ်းပဲရှိပါသေးသလားဟု စဉ်းစားမိ၍၊ လျှောက်သည်မှာ အရှင်ဘုရား မိမိကိုယ်ကိုဖြစ်စေ၊ သူတစ်ပါးကိုဖြစ်စေ၊ ကြည့်လိုက်သောအခါ ကိုယ်ရယ်လို့ ရှာမတွေ့တော့ဘဲ တရွရွနှင့် ပျက်နေတာကိုမြင်လျှင် ဘယ်လိုပါလဲ ဘုရားဟု လျှောက်ထားသောအခါ၊ ဒီလိုမြင်တာကတော့ အကောင်းဆုံးပဲ၊ ရုတ်တရက်မမြင်နိုင်ကြဘူးဟု အမိန့်ရှိလေ၏။

ထို့နောက် ဂန္ဓာရုံ ဆရာတော်ထံသွား၍ စုံစမ်းရာ၊ ဂန္ဓာရုံဆရာတော်ဘုရားက ဒီလိုလဲရှိတယ်၊ တချို့က သမထနှင့် စာပစ်ပယ်ပြီး လုပ်ကြတာတွေလဲရှိတဲ့အကြောင်း အမိန့်ရှိတော်မူကာ (ရူပကလာပသန္တတိ ကာမလောကေ ဒီပဇာလာဝိယနဒီသောတောဝိယစ)ဟူသော စာကိုလည်း ရွတ်ဆိုပြတော်မူ၏။

ဤကဲ့သို့မြင်လျှင် ဘာလိုပါသေးသလဲဘုရားဟု လျှောက်ပြန်သောအခါ ဤကဲ့သို့မြင်လျှင် ၎င်းပုဂ္ဂိုလ်ကို ပေါက်တဲ့ ပုဂ္ဂိုလ်ပဲလို့ ဆိုရမည်ဟု အမိန့်ရှိ လိုက်သော်နာမ်ဘက်သို့ ဆက်လက် လျှောက်ထားသောအခါ၊ ဆရာတော်ကြီးက အမိန့်ရှိသည်မှာ ဆရာတော်သည် ကျန်းမာရေးနှင့် မပြည့်စုံသဖြင့် ကောင်းကောင်းစကားပြော၍ မရခြင်းကြောင့် သည်းခံပါတဲ့အကြောင်း အမိန့်ရှိသောအခါ၊ ယောသိတာဝံချောင်သို့ ပြန်ခဲ့၍၊ နောက် ၁ ရက် မန္တလေးသို့ပြန်ပြီး၊ မိမိတို့ နေရပ်ဌာန ပြည်မြို့သို့ သင်္ဘောဖြင့် ပြန်ခဲ့လေသည်။

အထက်ပါ စကားတို့မှာ ဆရာတော်ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါသည်။ ကျွန်ုပ်သည် အထက်ပါ အချက်အလက်များကို ပြည်မြို့ နိဗ္ဗိန္ဒဆရာတော်ဘုရားကြီးရေးသားတော်မူသည့် သိက္ခာသုံးပါးပြရာကျမ်းမှ ရရှိခဲ့ပေသည်။ သို့သော် ထိုကျမ်းတွင်မပါသော အချက်ကလေးတစ်ခုကို ဓမ္မာစရိယ ဦးဌေးလှိုင်ထံမှ ရရှိပါသည်။ အောက်ပါအတိုင်းဖြစ်သည်။



လယ်တီဆရာတော်အပါးတွင် လေးငါးရက်ခန့်နေပြီး၊ လယ်တီဆရာတော်နှင့်အတူ မန္တလေးသို့ ခရီးဆက်ပြန်သည်။

ပြန်ခါနီးတွင် လယ်တီဆရာတော်က ကိုနိမ္မိန္ဒတို့ တောထဲနေတယ်ဆိုတာ အန္တရာယ်များတယ်။ ကဲ အရံအတားကလေး စွန့်ရသေးတာပေါ့ဟုဆိုကာ လက်ဖွဲ့တစ်ခု ချီးမြှင့်လိုက်၏။ ဆရာတော်ဘုရားကြီးချီးမြှင့်၍သာ ယူခဲ့ရသည်။ စိတ်ထဲတွင် မပါလှ။ ကျောင်းရောက်လျှင် ဘုရားစင်မှာပင် အမှတ်တမဲ့ထား၏။

နောက်တစ်ကြိမ် လယ်တီဆရာတော် ဘုရားကြီးနှင့် တွေ့သောအခါ ဆရာတော်က ကိုနိမ္မိန္ဒတို့ ကျုပ်ကိုတောင်မယုံဘဲကိုးဗျာဟု အမိန့်ရှိသဖြင့် အံ့အားသင့်သွား၏။ လယ်တီဆရာတော်သိသကိုးဟု ထပ်ဆင့်ဝမ်းမြောက်ခဲ့ရပြန်သည်။

(ကျမ်းကိုး။ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ စာအုပ် စာမျက်နှာ ၃၇၇ )

အထက်ပါ စကားတို့မှာ ဆရာတော်ကိုယ်တိုင်ရေး မှတ်တမ်းဖြစ်ပါသည်။

၁၉၇၇ တေဝိဇ္ဇ ရဟန္တာဟု ဆိုကြသော ပြည်မြို့ နိမ္မိန္ဒဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၇၇ ၊ ဖေဖော်ဝါရီလ ၁၁ ရက်၊ (၁၃၃၈ ခုနှစ် တပို့တွဲလပြည့်ကျော် ၉ ရက်၊) သောကြာနေ့ နံနက် ၂ နာရီ၊ ၁၅ မိနစ် သက်တော် ၉၁ နှစ် သိက္ခာတော် ၇၁ ဝါအရမှာ စုတိကမ္မဇရုပ် ချုပ်ငြိမ်းတော်မူကြောင်း သိရပါသည်။

ကျမ်းကိုး (၁) ပြည်မြို့ ၊ နိမ္မိန္ဒဆရာတော်ဘုရား၊ သိက္ခာသုံးပါးပြရာကျမ်း၊ ဗုဒ္ဓသာသနအဖွဲ့ ပုံနှိပ်တိုက်၊ ၁၉၉၆ ခုနှစ် စာမျက်နှာ က - ဂ။ (၂) ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ ဆဋ္ဌမအကြိမ်၊ ၁၉၈၅ ခုနှစ်၊ သတင်းဂျာနယ်ပုံနှိပ်တိုက်၊ စာမျက်နှာ ၃၇၇။ (၃) အရှင်ကေလာသ။ ဓမ္မာစရိယ၊ ဂဏဝါစက၊ B .A (Hons) ဝိဇ္ဇာဂုဏ်ထူး။ (သီရိလင်္ကာ) စစ်ကိုင်းသာသနာ့ဝင်။ သာသနာရေးဦးစီးဌာန၊ ၁၉၇၉ ခုနှစ်၊ ဒီဇင်ဘာလ ပထမအကြိမ်။ စာ ၁၆၅၊ ၂၇၉။ (မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၁၉)၊ ၈-၈-၂၀၀၅)

နတ်တို့၏ ဘုရားရှိခိုးသံကို ကြား၍နေရသော အလွန်ထူးခြားသည့်
မွန်ပြည်နယ် မုဒုံမြို့နယ်၊ ကော့ခပုံကျေးရွာ တောင်ပေါ်တောရ ရေတံခွန်ကျောင်း
မဟာရင်ဂိုဏ်းကြီး၏ ဦးစီးမဟာနာယက ဆဋ္ဌဂိုဏ်းချုပ်ဆရာတော်

# ဘဒ္ဒန္တဇောတိပါလ မဟာထေရ်မြတ်

အေဒီ ၁၈၈၉ – ၁၉၈၇ (၁၂၅၀ – ၁၃၅၀)





ကော့ခပုံဆရာတော်ဘုရားကြီး၏ ဘဝဖြစ်စဉ်မှန်ကို အနီးကပ်ဆုံး လေ့လာသိရှိထားသူမှာ ဆရာတော် ဦးကုန္ဒောဘာသပင် ဖြစ်ပါသည်။ ဆရာတော်သည် ဝင်းရော်ဆိပ်ကြီးရွာ ဇာတိဖြစ်ပြီး ပဝတ္တိမှာ ဘီလူးကျွန်း ချောင်းဆုံမြို့နယ် ရွာလွတ်ရွာကျေးရွာ သတိပဋ္ဌာန်ကျောင်းတွင် ကျောင်းထိုင်ဘုန်းကြီး အဖြစ်ဖြင့် သီတင်းသုံးနေထိုင်လျက်ရှိပါသည်။

ဆရာတော် ဦးကုန္ဒောဘာသ (သာသနဓဇဓမ္မာစရိယ)သည် ကျောင်းသားဘဝမှစ၍ ရှင်သာမဏေဘဝမှ ရဟန်းဘဝအထိ နှစ်ပေါင်းများစွာ ဆရာတော်ဘုရားကြီး၏အထံမှာ အတွင်းနေ (အနီးနေ) တပည့်ကြီး အဖြစ်ဖြင့် နေထိုင်ခဲ့ဖူး၍ ဆရာတော်ဘုရားကြီး၏ ဘဝခရီးကို အသိဆုံးပုဂ္ဂိုလ်ဖြစ်ပါသည်။ ထိုအရှင်ဝေဒဂူ ဆရာတော်ပင်လျှင် ဆဋ္ဌဂိုဏ်းချုပ်ဆရာတော် ဘဒ္ဒန္တ ဇောတိပါလ မဟာထေရ်မြတ်၏ သာသနာပြုဘဝခရီးခေါ် ထေရုပ္ပတ္တိစာတမ်းကို ၁၉၈၇ ခုနှစ်၊ ဇွန်လတွင် ပထမအကြိမ် ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။ ထိုဆရာတော်၏ အာဘော်အတိုင်း ထပ်ဆင့် ကြည်ညိုနိုင်အောင် ပြန်လည်ဖော်ပြပါမည်။

## ကော့ခပုံတောရ ရေတံခွန်ကျောင်းလမ်းညွှန်

ဂိုဏ်းချုပ်ဆရာတော် သီတင်းသုံးနေထိုင်သော ရေတံခွန်ကျောင်းသည် မွန်ပြည်နယ်၏ ပထမမြို့တော်ဖြစ်သော မော်လမြိုင်မြို့မှ မုဒုံကားလမ်းအတိုင်းသွားပါက မိုင်တိုင် ၁၄ မိုင်နှင့် ၆ ဖာလုံ အရောက်တွင် ကော့ခပုံကျေးရွာတွင်တည်ရှိပါသည်။ ယင်းကော့ခပုံကျေးရွာအနီး ဘင်လှိုင်ဘုရားကန်၏ အရှေ့ အဇင်းပျိုးဥယျာဉ် ဆိုင်းဘုတ်အနီး ကားလမ်း၏အရှေ့ဘက်တွင် ကော့ခပုံကျေးရွာရေတံခွန် ကျောင်းဟူသော ဆိုင်းဘုတ် စိုက်ထူထားပါသည်။

(ကျမ်းကိုး၊ အရှင်ဝေဒဂူ၊ စိစဉ်ရေးသားသည်။ ဘဒ္ဒန္တ ဇောတိပါလ မဟာထေရ်မြတ်၏ သာသနာပြု ဘဝခရီး ခေါ် ထေရုပ္ပတ္တိကထာ စာတမ်း၊ စာ၊ ၈)

ကော့ခပုံဆရာတော်ဘုရားကြီး၏ တရားထူးတရားမြတ်ရပုံနှင့်စပ်လျဉ်း၍ အတွင်းနေ တပည့်များကိုယ်တိုင် အောက်ပါအတိုင်း မှတ်ချက်ရေးထားသည်ကို ဖတ်ရှုရပါသည်။

> ဆရာတော်သည် လောကီဆိုင်ရာ ဈာန်အဘိညာဉ် တရားတို့၌လည်းကောင်း၊ လောကုတ္တရာဆိုင်ရာ မဂ်ဖိုလ် နိဗ္ဗာန် တရားဓမ္မကွန်တို့နှင့် လည်းကောင်း၊ စပ်လျဉ်း၍ မိမိရကြောင်း ရောက်ကြောင်း ပေါက်မြောက်အောင်မြင် ထိုးထွင်း၍ သိကြောင်းကို ရဟန်းဖြစ်သည့်နေ့မှစ၍ ယနေ့အထိ မိမိကိုယ်တိုင်သော်လည်းကောင်း၊ သူတစ်ပါးကို စေခိုင်း၍သော်လည်းကောင်း၊ တိုက်ရိုက်လည်း မဟော။ သွယ်ဝိုက်၍လည်း မပြောခဲ့။ အယုတ်ဆုံးအားဖြင့် ဩဘာနိမိတ် အရိပ်အယောင်ကိုမျှလည်း ပြသလေ့မရှိ။ မိမိ၏ အဓိမာနကိုတောင် ထုတ်ဖော်ပြောကြားခြင်း အလျဉ်းမရှိ။ ကြောင်လက်သည်း ဝှက်သည့်ပမာ သိပ်သည်းကျစ်လျစ်စွာ အမြဲဝှက်ထားလေ့ရှိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၄)

## မွေးဖွားရာဇာတိ

၁၈၈၈ တောင်ပေါ်တောရ ရေတံခွန်ကျောင်းဆရာတော်ဘုရားကြီးသည် မြန်မာနိုင်ငံ မွန်ပြည်နယ် မုဒုံမြို့နယ်၊ ကော့ခပုံကျေးရွာနေ၊ မွန်လူမျိုး ခမည်းတော် ဦးဆိုင်၊ မယ်တော် ဒေါ်ပီတို့မှ အေဒီ ၁၈၈၈ ၊ စက်တင်ဘာလ ၁၂ ရက်၊ (ကောဇာသက္ကရာဇ် ၁၂၅၀ ခုနှစ်၊ တော်သလင်းလဆန်း (၈) ရက်) အင်္ဂါနေ့ည မိုးသောက်ယံ နံနက်လင်းကြက်တွန်ချိန်၊ (သို့မဟုတ်) စက်နာရီလေးနာရီ အချိန်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့ပါသည်။



မွေးချင်း သား သမီး ၇ ဦး ရှိသည့်အနက် ဆရာတော် လောင်းလျာသည် အကြီးဆုံး သားဦးရတနာဖြစ်သည်။ မိဘများက (မောင်လှ)ဟု အမည်နာမ ပေးခဲ့လေသည်။

(မှတ်ချက်) ၎င်းတော်သလင်းဆန်း ၈ ရက်မှာ နှစ်တစ်ရာ ပြက္ခဒိန်တွင် အင်္ဂါနေ့မဟုတ် ဗုဒ္ဓဟူးနေ့ ဖြစ်နေကြောင်း တွေ့ရှိရပါသည်။ ကျမ်းကိုး၊ ပညာအလင်းပြ အင်္ဂလိပ် မြန်မာ နှစ်တစ်ရာ ပြက္ခဒိန် ၁၂၂၅ မှ ၁၃၂၉၊ ပညာ့အလင်းပြ ပုံနှိပ်တိုက်၊ ၁၉၆၆ စာ၊ ၁၄၉။ )

(ကျမ်းကိုး။ ယင်းကျမ်း။ စာ၊ ၁)

## မွေးနေ့ မွေးရက် ဆန်းစစ်လေ့လာချက်

ဆရာတော်ဘုရားကြီး၏ မွေးနေ့ မွေးရက်နှင့် ပတ်သက်၍ စာရေးသူက နှစ်တရာ ပြက္ခဒိန် (ခေါ်) ပြက္ခဒိန် ပေါင်းချုပ်နှင့် သွား၍ တိုက်ဆိုင်ကြည့်ရာ ယင်းတော်သလင်းလဆန်း (၈) ရက်နေ့သည် အင်္ဂါနေ့ သို့မဟုတ်ဘဲ ဗုဒ္ဓဟူးနေ့ ဖြစ်နေသည်ကို တွေ့ရှိရပါသည်ဟု ကျမ်းပြုဆရာ အရှင်ဝေဒဂူ ကိုယ်တိုင်က မှတ်ချက်ပြုခဲ့ပါသည်။ နှိုင်းယှဉ် စဉ်းစားရန်ဖြစ်ပါသည်။

ညဉ့်၏ နောက်ဆုံး မိုးသောက်ယံ နံနက် လင်းကြက်တွန်ချိန်ဟု ဆိုသဖြင့် စက်နာရီ အားဖြင့် ၄ နာရီ အချိန်ဖြစ်ပါသည်။ ရှေးခေတ် ဆရာတော်တို့ လက်ထက်က ယခုခေတ်မျိုးလို စက်နာရီ များများစားစား မရှိသေး မပေါ်ပေါက်သေးဘဲ ဖွားချိန်ကို ညဉ့်ဦးယံသန်းခေါင်ယံ မိုးသောက်ယံ နံနက်လင်း ကြက်တွန်ချိန် အရုဏ်တက်ချိန် စသည်ဖြင့် မှတ်သားလေ ရေးသားလေ့ရှိသည်။ အင်္ဂါနေ့ဟု ဆိုသဖြင့် လဆန်း ၉ ရက် (ကြာသပတေးနေ့) အကူး နံနက်လင်းကြက်တွန်ချိန် မဟုတ်ဘဲ (၈) (ဗုဒ္ဓဟူးနေ့) အကူး နံနက်လင်းကြက်တွန်ချိန်ကို ဆိုလိုပါသည်။ နံနက်လင်း ကြက်တွန်ချိန် သို့မဟုတ် စက်နာရီ (၄) နာရီအချိန်မှာ တစ်နှစ် ၁၂ လရှိသည့်အနက် မည်သည့် လတွင်မှ အရုဏ်မတက်သေးပါ။ အရုဏ်မတက်သေးလျှင် နံနက်ဆိုလင့်ကစား ၈ ရက်သို့ မကူးသေးဘဲ ၇ ရက် အတွင်းမှသာ ရှိနေပါသေးသည်။ ဆရာတော်၏ ဘွဲ့အမည် ဦးဇောတိပါလသည် အင်္ဂါနံ ဖြစ်၍ လူအမည်မောင်လှကို ကြည့်လျှင် အင်္ဂါသား မဟုတ်ဘဲ ဗုဒ္ဓဟူးသား ဖြစ်နေပြန်ပါသည်။

ယင်းသို့ ဆရာတော်ဘုရား၏ မွေးရက်ကို (၈) ရက်ဟု အတည်တကျယူလျှင် အင်္ဂါသား မဟုတ်ဘဲ ဗုဒ္ဓဟူးသား သာ ဖြစ်ရမည်။ အကယ်၍ မွေးနေ့ကို အင်္ဂါနေ့ဟု ယူပြန်လျှင်လည်း (၈) ရက် မဟုတ်ဘဲ (၇)ရက်သာ ဖြစ်ပါသည်။ ဆရာတော်ဘုရား၏ လူအမည် (မောင်လှ) ဗုဒ္ဓဟူးသားဖြစ်၍ ရဟန်းဘွဲ့ကိုမူ ဦးဇောတိပါလ အင်္ဂါသား ဖြစ်နေ၍ နေ့နှင့်ရက် (ကမ္ဘာ့ပြက္ခဒိန် အယူအဆနှင့်) ကိုက်ညီခြင်း မရှိဘဲ ဖြစ်နေပါသည်။ သို့ပါ၍ စာရှုသူများ မိမိတို့ဉာဏ်နှင့် ချင့်ချိန်၍ ယူကြပါရန် ပန်ကြားအပ်ပါသည်ဟု လေ့လာတွေ့ရှိ ဖတ်ရှုရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၂ - ၃)

## ရှင်သာမဏေပြုချိန်

၁၉၀၅ အသက် (၁၇)နှစ် လူပျိုကလေးအရွယ်သို့ ရောက်ရှိလာသော သားမောင်လှကို အေဒီ ၁၉၀၅ (ကောဇာသက္ကရာဇ် ၁၂၆၇ ခုနှစ်)တွင် နှစ်ပါးဖြစ်သော ဦးဆိုင်နှင့်ဒေါ်ပိတို့က သာသနာ့ဒါယကာ သာသနာ့အမွေကို ခံယူလိုပါသဖြင့် သက်န်းသပိတ် ပရိက္ခရာတို့ကို လှူဒါန်းကာ ထိုဆရာတော် ဦးသုဝဏ္ဏထံ၌ပင် ရှင်သာမဏေအဖြစ်သို့ သွတ်သွင်းခဲ့ပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ၊ ၆ )



## ဘွဲ့အမည် ရှင်ဇောတိပါလ

ရှင်သာမဏေဖြစ်ပြီးသော မောင်လှကို ဥပဇ္ဈာယ်ဆရာတော် ဦးသုဝဏ္ဏက သဒ္ဒါဇျုပ္ပတ္တိနှင့် လျော်ညီစွာ ရှင်ဇောတိပါလဟု ဘွဲ့အမည်ပေးခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၇ )

## မြင့်မြတ်သော ရဟန်းဖြစ်တော်မူခြင်း

၁၉၀၇ အေဒီ ၁၉၀၇ ခု၊ ဧပြီ ၁၇ ရက်၊ (သက္ကရာဇ် ၁၂၆၉ ခုနှစ်၊ နွေဦးတု ကဆုန်လဆန်း ၇ ရက်) ဗုဒ္ဓဟူးနေ့တွင် ဒုတိယ မဟာရင်ဂိုဏ်းချုပ် ကွမ်တာကျောင်းဟောင်း ဆရာတော် ဘဒ္ဒန္တဉာဏသိရီ မဟာထေရ်ကို ဥပဇ္ဈာယ်ပြုစေ၍ မုဒုံမြို့နယ် ကွမ်တာ ကျောင်းဟောင်း ခဏ္ဍသိမ်တော်၌ မြင့်မြတ်သော ရဟန်းအဖြစ်သို့ သွတ်သွင်း ချီးမြှောက်ခဲ့လေသည်။

ရဟန်းသစ် ဦးဇောတိပါလ၏ ကမ္မဝါဆရာကား အရှင်ဦးဝဇီရမထေရ် (ဆရာထူး)နှင့် ဦးနန္ဒိယမထေရ် (နိုင်ယျ)တို့ဖြစ်ကြပါသည်။ ရှင်ဇောတိပါလ ရဟန်းဘဝတို့ ရောက်ပြီးလျှင် ယင်းသင်လှိုင် သာသနာဝေပုလ္လာရာမကျောင်း ဆရာတော် ဦးဝဏ္ဏထံတော်၌ သာသနာ့အမွေ ပရိယတ်စာပေကို သင်ကြားရင်း တစ်ဝါ သီတင်းသုံး နေထိုင်ခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၈ )

## ကျောင်းထိုင်မလုပ်လိုသော ကျောင်းစောင့်ဘဝ ဦးဇောတိပါလ

ရဟန်းပျို ဦးဇောတိပါလသည် ပဗ္ဗတမင်္ဂလာရုံကျောင်း မဟာကြံ ဆရာတော်၏ ခြေတော်ရင်း၌ ပညာရည်နို့ သောက်စို့ နေစဉ်မှာပင် မဟာကြံဆရာတော် အရှင်မြတ်က သာသနာရေးကိစ္စဖြင့် ယိုးဒယားနိုင်ငံသို့ ကြွသွားပါသည်။

ယင်းသို့ မဟာကြံဆရာတော် ယိုးဒယားသို့ ကြွသွားပြီးနောက် ပဗ္ဗတမင်္ဂလာရုံကျောင်း၌ ကျောင်းထိုင်ပုဂ္ဂိုလ်မရှိဘဲ ဖြစ်နေပါသည်။ ထိုအခါ ဂိုဏ်းချုပ်ဆရာတော် ဘဒ္ဒန္တမောဂ္ဂလိပုတ္တ မထေရ်က ဦးဇောတိပါလမှတစ်ပါး အခြားပုဂ္ဂိုလ် မမြင်ရကား ဦးဇောတိပါလကိုပင် ခေတ္တ ကျောင်းစောင့် ပုဂ္ဂိုလ်အဖြစ် တာဝန်ပေးနေရာချလိုက်သည်။

ထိုအချိန်တွင် ဦးဇောတိပါလသည် ရဟန်းသိက္ခာ ၇ ဝါမျှိုးမျှသာ ရှိသေးသဖြင့် ကျောင်းထိုင် ပုဂ္ဂိုလ်မလုပ်လိုပါ။ မဆုံးသေးသော ပညာကိုသာလျှင် ဆက်လက်ပြီး သင်ကြားလိုစိတ် ပြင်းထန်နေပါသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၉ )

## ယိုးဒယားနိုင်ငံသို့ ပညာသင်ကြားရန် ထွက်ခွာခြင်း

မိမိကိုယ်စား ကျောင်းစောင့်မည့်ပုဂ္ဂိုလ် မရှိသေး၍ ဇွတ်အတင်း ထွက်သွားရန် မသင့်လျော်သဖြင့် အောင့်အည်းသည်းခံပြီး နေရပါတော့သည်။ ထိုအခါ ရဟန်းတော် ဦးဇောတိပါလသည် ဤသို့ အကြံတစ်ခု ဖြစ်ပေါ်လာသည်။



ယိုးဒယားနိုင်ငံ ဘန်ကောက်မြို့သို့ ပြန်ကြွသွားသော မဟာကြံခေါ် ဆရာတော်ထံ၌ မဆုံးရသေးသော မိမိ၏ စာသင်သားဘဝ ပညာခရီးကို ဆက်လက်ပြီး သင်ကြားဦးမည်။ သင်ကြားရန် နည်းလမ်း ပရိယတ်ကို ဒကာ ဒကာမတို့အား အကြောင်းပြ ဖျောင်းဖျပြီး မိမိသီတင်းသုံးနေထိုင်ခဲ့သည့် ပဗ္ဗတ မင်္ဂလာရုံကျောင်းကို ကျောင်းရှိ သံဃာတော်များနှင့် ဒကာ ဒကာမတို့အား အပ်နှံကာ မိမိ၏ တပည့် ကျောင်းသား နှစ်ယောက်ကို မိမိနောက်သို့ ခေါ်သွား၍ ယိုးဒယားနိုင်ငံ ဘန်ကောက်မြို့သို့ ပညာ သင်ကြားရန် အကြောင်းပြပြီး ထွက်ခွာသွားပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၁၂)

## နိုင်ငံခြား ပညာတော်သင်

စာသင်သား ရဟန်းအချို့ အရှင်ဇောတိပါလ နောက်ပါတပည့်များနှင့် ယိုးဒယား (ခေါ်) ထိုင်းနိုင်ငံ ဘန်ကောက်မြို့တော်သို့ကြွရောက်ပြီး ဝပ်ခွတ်ကျောင်းဆရာတော် မဟာအိန်၏ ခြေတော်ရင်း၌ ပိဋကတ်စာပေကို မွန်၊ ပါဠိ၊ ယိုးဒယား သုံးဘာသာဖြင့် လေ့လာသင်ကြားရင်း နှစ်ဝါ ကုန်ဆုံးခဲ့လေသည်။ လောကီ လောကုတ္တရာ ဗဟုသုတ အဖြာဖြာကို ယိုးဒယားနိုင်ငံမှာ လေ့လာသင်ကြားပြီး ပဋိပတ်ဆိုင်ရာ နည်းနာတို့ကို လည်း လက်တွေ့သင်ကြားခဲ့လေသည်။

## ယိုးဒယားနိုင်ငံသား စာသင်သားများ

ဤသို့ ယိုးဒယားနိုင်ငံမှာ လောကီ လောကုတ္တရာ ပရိယတ် ပဋိပတ်ဆိုင်ရာ ဗဟုသုတအဖြာဖြာတို့ကို နှစ်ဝါပတ်လုံး ပညာစုံအောင် ရှာမှီးလေ့လာသင်ကြားတတ် မြောက်ပြီးနောက် မိမိ၏နေရင်း မြန်မာနိုင်ငံ ရာမညဌာနီ မွန်တို့နေပြည်တော် မော်လ မြိုင်ခရိုင်သို့ ထွက်ခွာလာခဲ့ပါသည်။ ယိုးဒယားနိုင်ငံမှ ထွက်ခွာလာသောအခါ ယိုးဒယား နိုင်ငံသား စာသင်သား ရဟန်းတော် ၅ ပါးတို့ကို ခေါ်လာခဲ့ပါသည်။

ယိုးဒယား ရဟန်းတော်များကို ပရိယတ်စာပေ သင်ကြားရန် နေရာချထားပြီး လျှင် သပိတ်တစ်လုံးလွယ်ကာ သင်္ကန်းသုံးထည်နှင့် တာပလပတ်ခေါ် ထန်းရွက် ယပ်တောင်ကြီးတစ်ခုဖြင့် တောကြီးဂနိုင် မြိုင်ကြီးရဂုံတို့ ထွက်ကြွသွားတော်မူသည်ဟု ဖတ်ရှုရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၁၃ )

## ဝင်းရော်ဆိပ်ကြီးရွာ၌ ဆွမ်းခံခြင်း

ရဟန်းတော် ဦးဇောတိပါလသည် အရညကင် တောရစုတင် ဆောက်တည်ပြီး တောတောင် လိုဏ်ဂူဘွေ့ထဲမှာ ရဟန်းတရားကို ကြိုးစားအားထုတ်ရင်း တစ်ခါတစ်ရံ မိပရုံရွာ တစ်ခါတစ်ရံ တောင်ဒီရွာ တစ်ခါတစ်ရံ ဝင်းရော်ဆိပ်ကြီးရွာသို့ ကြွရောက်ဆွမ်းခံလေ့ရှိ၏ဟုသိရပါသည်။

ဝင်းရော်ဆိပ်ကြီးရွာကား ယခုအခါ ကရင်ပြည်နယ်၊ ကြာအင်းဆိပ်ကြီးမြို့နယ်တွင်ပါဝင်၍ အိမ်ခြေပေါင်း(၃၀၀)ကျော် ရွာကြီးတစ်ရွာဖြစ်ပါသည်။ မုဒုံမြို့နှင့်ဆိုလျှင် မိုင်ပေါင်း (၃၀) ကျော်ဝေးပြီး မော်တော်ကားလမ်း ပေါက်ပါသည်။ သို့သော် ဆောင်းနှင့်နွေဥတုသာ သွားလာခွင့်ရပြီး မိုးအခါမှာ ကုန်းလမ်းခရီးသွားမရဘဲ ချောင်းနှစ်ခွမှနေ၍ ဖြာထွက်သွားသော ရေလမ်းခရီးအတိုင်းသွားလျှင် ဝင်းရော်ဆိပ်ကြီးရွာသို့ ရောက်ရှိနိုင်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၁၇ )



## မိပရံတောင်လိုဏ်ဂူ၌ သီတင်းသုံးခြင်း

၁၉၂၂ မိပရံတောင်လိုဏ်ဂူ၌ သီတင်းသုံးနေထိုင်ပြီး ဝင်းရော်ဆိပ်ကြီးရွာသို့ ဆွမ်းခံကြွသော အခါ မိုးတွင်းအခါဝယ် အသွားအလာခက်ခဲ၍ ချောင်းများ၊ စမ်းချောင်းများကို ဖြတ်ကျော်ပြီးသွားရပါသည်။ ဘီလူးကျွန်း ချောင်းဆုံမြို့နယ် ရွာလွတ်ရွာ သတိပဋ္ဌာန်ကျောင်းဆရာတော် (မွှာစရိယ) ဦးကုန္တွေဘာသ၏ အဘိုးအဘွားများ ဖြစ်ကြသော ဝင်းရော်ဆိပ်ကြီးရွာနေ ဦးရွှေရနှင့် ဒေါ်ငွေညွှာတို့က အေဒီ ၁၉၂၂ ခု (ကောဇာသက္ကရာဇ် ၁၂၈၄ ခုနှစ်)တွင် ဦးဇောတိပါလ သီတင်းသုံးရန် ဝါးကျောင်းကလေး တစ်ဆောင်ကို ဦးရွှေရ ဒေါ်ငွေညွှာနှင့် ဦးတိုးကလေးတို့ ဒါယကာတစ်စုက ဆောက်လုပ်၍လှူဒါန်းခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၁၈-၁၉ )

## ဝင်းရော်ဆိပ်ကြီးရွာ အခြေအနေ

ဝင်းရော်ဆိပ်ကြီးရွာသည် မွန်ပြည်နယ် ကျိုက်မရောမြို့နယ် ချောင်းနှစ်ခွမှ ဖြာထွက်သွားသော ဝင်းရော်ချောင်း ကမ်းစပ်၌ တည်ရှိသောကြောင့် ဝင်းရော်ဆိပ်ကြီးရွာဟု အမည်တွင်သည်။

မှတ်ချက်။ ယခုအခါ ထိုရွာသည် ကရင်ပြည်နယ်တွင် အကျုံးဝင်၍ ကြာအင်းဆိပ်ကြီးမြို့နယ်တွင် ပါဝင်ပါသည်။ မွန်ပြည်နယ်၏ မြို့တော် မော်လမြိုင်မှ မိုင်ပေါင်း (၅၀)ကျော် ဝေး၍ မော်တော်ကားလမ်း ပေါက်ပါသည်။ ရေလမ်းကား တောရဘုန်းကြီး ဦးဇောတိပါလ ကျောင်းလက်ခံစဉ်အခါ အင်္ဂလိပ်လက်ထက်က အောင်ဇေယျသင်္ဘော အမြဲပြေးဆွဲလျက်ရှိပါသည်။

ယခုအခါ သင်္ဘောသွားလာခြင်း လုံးဝမရှိတော့ဘဲ စက်လှေနှင့် ပဲ့ချိတ်တို့သာ မိုးတွင်းအခါရော နွေအခါပါ ပြေးဆွဲလျက်ရှိသည်။

ဝင်းရော်ဆိပ်ကြီး ရွာသူ ရွာသားတို့၏ အသက် မွေးဝမ်းကျောင်း လုပ်ငန်းမှာ အချို့ကား ဈေးရောင်း၊ အချို့ကား လယ်လုပ်၊ အချို့ကား သစ်လုပ်ငန်းများ လုပ်ကိုင်၍ စီးပွားရှာကြသည်။ များသောအားဖြင့် သစ်လုပ်ငန်းကို လုပ်ကိုင်ကြကုန်သော သူတို့သည် သာလျှင် စီးပွားရေး အခြေအနေ ကောင်းနေကြသည်။ ယခုအချိန်အထိ သစ်လုပ်ငန်းကို လုပ်ကိုင်၍ စီးပွားရှာကြသော သစ်ကုန်သည်တို့ ရှိကြပါသေးသည်။

၁၉၂၂ တိုင်းပြည် မငြိမ်မသက် မအေးမချမ်း သောင်းကျန်းသူတို့ဘေးကြောင့် အချို့စီးပွား အသင့်အတင့်ရှိကြသောသူတို့သည် မိမိတို့ရွာသို့စွန့်ခွာ၍ မြို့ပေါ်သို့ ပြောင်းရွှေ့ နေထိုင်ကြသည်။ အေဒီ ၁၉၂၂ (ကောဇာသက္ကရာဇ် ၁၂၈၄ ခုနှစ်)ကျောင်း တည်ထောင်သောနှစ်တွင် ရွာအခြေအနေ အိမ်ခြေပေါင်း ၈၀ မျှသာရှိ၍ ယခုမူကား အိမ်ခြေပေါင်း ၃၀၀ အခြေအနေသို့ပင်ရောက်ရှိနေပါပြီ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၂၁-၂၂ )

## ဝင်းရော်ဆိပ်ကြီး ဆရာတော် အမည်ရပုံ

ဝင်းရော်ဆိပ်ကြီးရွာ၏ အနောက်ဘက် တောရကျောင်းတိုက်၌ သီတင်းသုံးသည်မှစ၍ တောရဘုန်းကြီး ဦးဇောတိပါလကို 'တောရဆရာတော်'ဟု ရွာသူရွာသား ဒကာအများတို့က ခေါ်ဝေါ်သမုတ်ကြ၍ မဟာရင်တစ်ဂိုဏ်းလုံးရှိ ရဟန်းရှင် လူအများကမူ 'ဝင်းရော်ဆိပ်ကြီး ဆရာတော်'ဟု ယနေ့အထိ ခေါ်ဝေါ်နေကြသည်ကို တွေ့ရှိရပါသည်။



ဝင်းရော်ဆိပ်ကြီးရွာ ရောက်သည့်အခါကစ၍ ယနေ့အထိ အရညကင် တောရဝတ်ကိုသာ အမြဲမပြတ် ဆောက်တည်ပြီး သီတင်းသုံးနေထိုင်လေ့ရှိပါသည်။

## မိပရံတောင်၌ သီတင်းသုံးခြင်း

ဆရာတော်သည် မိုးတွင်းအခါ ယင်းတောရကျောင်း၌ ဝါဆိုသီတင်းသုံးပြီး သီတင်းဝါလကျွတ်၍ ပဝါရဏာပြုပြီးသောအခါ ကိုယ်တော်တစ်ပါးတည်း ဧကစာ နေလိုသဖြင့် ဝိပဿနာ ကမ္မဋ္ဌာန်းကျောင်း ရဟန်းတရားကိုလည်း ကျွတ်ကျွတ်လွတ်လွတ် ပွားများလိုရကား မိမိနေရာဟောင်း မိပရံတောင်သို့ ကြွရောက်ပြီး ဆောင်းနှင့်နွေရာသီ ဥတုနှစ်လီတို့ ကာလပတ်လုံး သီတင်းသုံး နေထိုင်လေ့ရှိပါသည်။

တစ်ခါတစ်ရံ မိပရံတောင်နှင့် မလှမ်းမကမ်းရှိ ကရင်ရွာအနီး တောင်ဒီတောင်သို့ လည်းကောင်း၊ ထိုမှတစ်ဖန် ဖားပြတောင်သို့လည်းကောင်း ကြွရောက်ပြီး စိတ်အေးလက်အေး နေထိုင် သီတင်းသုံးလေ့ရှိပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၂၂-၂၃ )

## ဆရာတော်ကြီးနှင့် မြွေကြီးတစ်ကောင်အကြောင်း ဖြစ်ရပ်ဆန်း

ကော့ခပုံဆရာတော်ကြီးနှင့် စပ်လျဉ်းသော အံ့ဖွယ်ဖြစ်ရပ်များမှာ ယနေ့ထက်တိုင် အံ့ဩကြည်ညိုဖွယ်ဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

တစ်နေ့သောအခါ ဆရာတော်သည် တောင်ပတ်ဝန်းကျင်ကို လှည့်လည်ပြီး အကဲခတ်လေ့လာရင်း အရေလဲထားသော မြွေတစ်ကောင်၏ အရေခွံကို တောင်ဝှေးဖြင့်ကလော်၍ မိမိနေရာ ဂူပေါက်ဝသို့ယူလာခဲ့ပါသည်။

ထိုသို့ယူလာပြီး ရက်မကြာခင် မြွေကြီးတစ်ကောင်သည် ဆရာတော် တရားအားထုတ်နေစဉ် ပါးပျဉ်းထောင်၍ ဆရာတော်သီတင်းသုံးနေသည့် နေရာဂူပေါက်ဝသို့ ဝင်လာသည်ကို တွေ့ရှိရသည်။ ထိုအခါ ဂူပေါက်ဝမှာချထားသော ဆရာတော်၏ သပိတ်သက်န်းနှင့် ထန်းရွက် ယပ်တောင်ကြီးကိုလည်း ကစားထားရာ အားလုံးမှာ ကြေမွပျက်စီး မှောက်လှန်ပြီး နေရာအနှံ့ပြန့်ကျဲနေပါသည်။

ထို့နောက် ဆရာတော်သီတင်းသုံးသော ဂူအတွင်းသို့ ရှေးရှုဝင်လာပါတော့သည်။ ထိုအခါ ဆရာတော်က မြွေကြီး၏ဘေးရန်ကို ကာကွယ်ဖို့ရန် မိမိမှာ တစ်စုံတစ်ရာ ဘာလက်နက်တစ်ခုမျှမရှိ။ နာဠာဂီရိ ဆင်ရိုင်းကြီးကို မေတ္တာလက်နက်ဖြင့် အနိုင်ယူ အောင်မြင်တော်မူသော ဘုရားရှင်ကဲ့သို့ပင် မိမိမှာလည်း ထိုနည်းတူ အနိုင်ယူဖို့စဉ်းစားနေတော့သည်။ ဂူဝသို့ဝင်လာသော မြွေကြီးကို မေတ္တာလက်နက်မှ တစ်ပါး အခြား အောင်နိုင်စရာ အကြောင်းမရှိ။ ထိုအခါ ဆရာတော်သည် မေတ္တာလက်နက်ကို အစွမ်းကုန် အသုံးပြုကာ မြွေကြီးအပေါ်မှာ ဖြန့်ထားလိုက်လေသည်။

မြွေကြီးသည် ဆရာတော်ထိုင်နေသော နေရာအနီးသို့ မရောက်မီ ၅ တောင် ၆ တောင်ခန့် အကွာ သူ့လျှာကို ထုတ်ပြလိုက်ပြန်သွင်းလိုက်နှင့်လုပ်ကာ ခဏအကြာ သူဝင်လာသည့် လမ်းအတိုင်းပင် ပြန်ထွက်သွားတော့သည်။ ဆရာတော်၏ စူးရှသော မေတ္တာအဟုန်ကြောင့် ကြောက်မက်ဖွယ်မြွေကြီးသည် ဆရာတော်ကို အန္တရာယ်မပြုနိုင်။ တကယ့်မြွေကြီးအစစ်လေလား၊ သို့မဟုတ် တောင်စောင့်



နတ်က မြွေယောင်ဆောင်ပြီး ဆရာတော်ကိုလာ၍ ကန်တော့လေသလားဆိုတာကို မတွေးတော မပြောတတ်ပါ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၂၄-၂၅ )

ဤသို့ အံ့ဖွယ်ဖတ်ရှုရပါသည်။

## တောင်ပေါ်တောရ ရေတံခွန်ကျောင်းမှာ နွေအခါ တစ်ပါးတည်းနေ

ဝင်းရော်ဆိပ်ကြီးတောရ ဆရာတော်သည် သက်တော် ဝါတော်ကြီးလာသောအခါ များသောအားဖြင့် ဝါတွင်းအခါနှင့် ဆောင်းရာသီကာလတို့မှာသာ ဝင်းရော်ဆိပ်ကြီးတောရကျောင်း၌ ကိန်းအောင်းမွေ့လျော်ပြီး ဝါပအခါ နွေဦးအစ တပေါင်းလရောက်လျှင် ဂိုဏ်းစာပြန်ပွဲ ကျင်းပရာဌာနသို့ ကြွရောက်ပြီးလျှင် အပြန်ခရီးမှာ မုဒုံမြို့နယ် ကော့ခပုံကျေးရွာအရှေ့ သုံးမိုင်ခရီးဝေးသော ယခုလက်ရှိ တောင်ပေါ်တောရကျောင်းကလေးသို့ ကြွရောက်ပြီး စိတ်အေးလက်အေး သီတင်းသုံးနေထိုင်တော်မူလေ့ရှိသည်။

ဝါဝင်ခါနီးကျမှသာ မိမိနေရာဟောင်း ဝင်းရော်ဆိပ်ကြီး တောရကျောင်းသို့ ပြန်ကြွလေ့ရှိသည်။

ယခု တောင်ပေါ်တောရရေတံခွန်ကျောင်းသည် ယခင်က တစ်ပါးတည်းနေ ကျောင်းငယ်ကလေး တစ်ဆောင်မျှရှိ၍ ကျောင်းသွားလမ်းသည်လည်း ယခုလို လှည်းလမ်း ကားလမ်း မဟုတ်ဘဲ လူသွားလမ်းငယ်ကလေးမျှသာရှိ၏။ တောလည်းအလွန်နက်၏။ ဆရာတော်သည် လူအတွေ့ကိုရှောင်၍ ဤကျောင်းငယ်ကလေးမှာလာ၍ ကိန်းအောင်းမွေ့လျော်စိမ်ပျော်နေလေ့ရှိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၂၇)

## ဆဋ္ဌမဟာရင် ဂိုဏ်းချုပ်ရာထူး ဆက်ခံခြင်း

၁၉၅၆ ဘီလူးကျွန်းချောင်းဆုံမြို့နယ် ရွာလွတ်ရွာ နိဂြောဓာရုံ (ညောင်ပင်) ကျောင်းကြီး၌ သီတင်းသုံးနေတော်မူသော ပဥ္စမ မဟာရင်ဂိုဏ်းချုပ်ဆရာတော် ဘဒ္ဒန္တ မဟိန္ဒ မဟာထေရ်အရှင်သူမြတ်သည် အေဒီ ၁၉၅၆ ဩဂုတ်လ ၆ ရက် (ကောဇာသက္ကရာဇ် ၁၃၁၈ ခုနှစ်၊ ဝါဆိုလကွယ်)တနင်္လာနေ့၊ နေ့လယ် ၁၂ နာရီ အချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။

၁၉၅၆ ယင်းပဥ္စမဂိုဏ်းချုပ်ဆရာတော် ပျံလွန်တော်မူပြီးသည့်နောက် ဓမ္မယုတ္တိနိကာယ မဟာရင်ဂိုဏ်းကို အဆက်မပြတ် ထိန်းသိမ်းစောင့်ရှောက်သွားနိုင်ရန် ဂိုဏ်းဝင်ကျောင်းထိုင်ဆရာတော်များအားလုံးက အစည်းအဝေး ပြုလုပ်ပြီးလျှင် ဝင်းရော်ဆိပ်ကြီးရွာ တောရကျောင်းဆရာတော် ဘဒ္ဒန္တဇောတိပါလ မဟာထေရ်ကို ရွေးချယ်ကာ ဓမ္မယုတ္တိနိကာယ၏ ဆဋ္ဌမဟာရင်ဂိုဏ်းချုပ်အဖြစ်ဖြင့် အေဒီ ၁၉၅၆ ခု ဩဂုတ်လ ၁၄ ရက်၊ (၁၃၁၈ ခုနှစ်၊ ဝါခေါင်လဆန်း ၈ ရက် အင်္ဂါနေ့) ညနေ ၄ နာရီ အချိန်တွင် ယင်းနိဂြောဓာရုံကျောင်း၌ပင်လျှင် တင်မြှောက်ကြလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၂၈ )

## ဂိုဏ်းချုပ်တင်မြှောက်ပွဲမှာ ဆရာတော်၏ မိန့်မြွက်စကား

ဆရာတော်၏အလေ့အထမှာ တောစဉ်တောင်စဉ်တို့တွင် တရားဘာဝနာ အားထုတ်လိုခြင်းသာ ဖြစ်ပါသည်။ ထို့ကြောင့်လည်း ဝင်းရော်ဆိပ်ကြီးတောရဆရာတော် ဘဒ္ဒန္တဇောတိပါလ မဟာထေရ်ကို ဂိုဏ်းချုပ်အဖြစ် တင်မြှောက်ပြီးသောအခါ ယင်းရွာလွတ်ရွာ နိဂြောဓာရုံကျောင်းဒကာများက သူတို့၏



ကျောင်းမှာပင် အမြဲသီတင်းသုံးဖို့ရန် သံဃာတော်များ၏ရှေ့မှောက်တွင် ပင့်ဖိတ်ကြပါသည်။ ထိုအခါ ဆရာတော်က အောက်ပါအတိုင်း မိန့်တော်မူကြောင်းသိရပါသည်။

> အေး ဒကာတို့ သမင် ဒရယ် ချေငယ် စိုင် ဆတ် ဖွတ် ပဒတ် ကြောင် ယုန်ကောင် စသော တောကောင် သတ္တဝါတို့ မည်သည်မှာ သူတို့၏ ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော တောတောင်မှာသာလျှင် အစဉ်ပျော်မွေ့လေ့ရှိပါတယ်။ တောမှာမွေးကာ တောမှာနေ၍ တောခလေ့ တောမွေ့သဘာဝ သတ္တဝါဖြစ်သည့်အလျောက် သူတို့၏ မွေးရပ်ဌာနီ ကျက်စားရာခရီး မဟုတ်သော လူတို့၏နေရာ မြို့ရွာများ၌ မည်မျှ အဆောက်အအုံ အစားအစာတွေ ပေါများပြည့်စုံ၍ ကောင်းမွန်စေကာမူ ပျော်မွေ့ခြင်းမရှိဘဲ တောတောင်ကိုသာ အမြဲထာဝရ အောက်မေ့တသကြသလို၊ ထို့အတူပါပဲဟု မိန့်တော်မူကာ ဒကာတို့ ပင့်ဖိတ်ချက်ကို လက်မခံဘဲ ပယ်လိုက်လေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၂၉-၃၀ )

ထိုမှတစ်ပါး အခြားသော အဝတ်အရုံ အစားအသောက် အပူအအေး စသော ဘေးတို့ကိုလည်း မညည်းမညူ အေးအေးလူလူ သည်းခံတော်မူသည်။ ဆွမ်း သင်္ကန်း ကျောင်း ဆေး ပစ္စည်းလေးပါးနှင့် ပတ်သက်လာလျှင်မူ သပ္ပါယ မဖြစ်တာကိုလည်း နှလုံးမသာခြင်း မရှိ။ စိတ်ထိခိုက်ခြင်း ကင်းတော်မူကာ မျက်နှာတော်မှာ အမြဲထာဝစဉ် ရွှင်လန်းလျက် ရှိတော်မူ၏ဟုသိရပါသည်။

> အိပ်ရာနှင့် ပတ်သက်၍မူ ယခု သက်တော် ၉၈ နှစ်၊ သိက္ခာတော် ၇၉ ဝါရသည့်အထိ ဆရာတော်ကျောင်းမှာ ညောင်စောင်းခုတင်များမရှိ။ ရှိပါသော်လည်း ယင်းညောင်စောင်းခုတင်ပေါ်မှာ အိပ်လေ့အိပ်ထမရှိပါဟုသိရပါသည်။
>
> သို့သော် ခရီးသွားနေခိုက်အခါ သူတစ်ပါးတို့ကျောင်းမှာ ညောင်စောင်းခုတင်များ ပြင်ဆင်ထားပါမူကား အသင့်အတင့်တော့အိပ်ပါသည်။ ကျိန်းစက်ပါသည်ဟုဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၃၃ )

## တောရကျောင်းပျော် ဆရာတော်

ဆရာတော်သည် ယခု တည်ရှိလျက်ရှိသော ဝင်းရော်ဆိပ်ကြီး တောရကျောင်းတွင် နှစ်ပေါင်း (၄၃)နှစ်၊ (၄၃)ဝါ ကျော် စံပျော်နေထိုင်တော်မူခဲ့သည်ဟု မှတ်တမ်းရှိပါသည်။ အံ့ဖွယ်ဖြစ်ပါသည်။

၁၉၂၃-၆၅ အေဒီ ၁၉၂၃ - ၁၉၆၅ ခု ( ကောဇာသက္ကရာဇ် ၁၂၈၄ ခုနှစ်မှ ၁၃၂၇ ခုနှစ် )သို့ တိုင်အောင် (၄၃)ဝါ ကာလ သာသနာတော် တည်တံ့ထွန်းကားပြန့်ပွားစေခြင်း အလို့ငှာ ဆင်းရဲအမျိုးမျိုး ဒုက္ခအဖုံဖုံ အပင်ပန်းမျိုးစုံခံကာ သီတင်းသုံး နေထိုင်တော်မူခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၅၁ )

## မွတ်လအီ၊ မွတ်လအတ် တောတောင်ဘုရားဖူး

ဆရာတော်ဘုရားသည် သက်တော်နုနယ် ဝါတော်ငယ်စဉ်အခါ ကျန်းမာနေတော်မူသော အချိန်တုန်းက ဘုရားဖူး အလွန်ဝါသနာပါသည်ဟုဆို၏။



အထူးသဖြင့် ရာဇဝင်လာ နာမည်ကြီးသော မွန်ပြည်နယ်၊ ကရင်ပြည်နယ်နှင့် တနင်္သာရီတိုင်းအတွင်းရှိ မွတ်လအိ၊ မွတ်လအတ်၊ ဒေကလွတ်ခေါ် ဆေးတောင်စသော ဝေးရပ်ဌာနီ တောကြီးပမာတောင်ကြီးသေလာရှိ သမိုင်းဝင် ဘုရားစေတီတို့ကို နွေရာသီအခါ စာပြန်ပွဲအပြီး စာသင်ရပ်နားချိန်တွင် တပည့်ကပ္ပိယ သို့မဟုတ် ကျောင်းသားတစ်ယောက်နှစ်ယောက်နှင့် ကြွရောက်လှည့်ပြီး ဖူးမြော်လေ့ရှိ၏။ ဘုရားဖူးသက်သက် မဟုတ်ဘဲ ရောက်လေရာဌာနတိုင်းတွင် မည်မျှအခက်အခဲရှိပါစေ အဓိဋ္ဌာန်ပါရမီ ၇ ရက် ဆောက်တည်ပြီး တရားဘာဝနာကို ကြိုးစားအားထုတ် ကျင့်သုံးခဲ့၏ဟု သိရှိရပါသည်။

(ကျွမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၅၁-၅၂ )

## တောကြီးဂနိုင် မြိုင်ကြီးရဂုံ

ယင်းမွတ်လအိ၊ မွတ်လအတ် ဆေးတောင်စသော ဆံတော်ရှင်သမိုင်းဝင် ဘုရားစေတီတို့သည် ယိုးဒယား(ထိုင်း)နယ်စပ်ရောက်လုနီးပါး လူတို့နေထိုင်ရာမြို့ရွာတို့မှ အလွန်ဝေးလံသော တောကြီးမျက်မည်း တောင်စဉ် ၇ ထပ်တို့အလယ်၌တည်ရှိသောကြောင့် လူတို့အရောက်အပေါက် အလွန်နည်းလှ၏။ ရောက်သော်လည်း တစ်နေ့နှင့်တစ်ညဉ့်ထက် ပို၍မနေနိုင်ပါဟုဆိုကြပါသည်။

## မိုးကောင်းကင်မှာ တွေ့ရသည်ဟူသော ကောလာဟလ သတင်း

တစ်ရံရောအခါက မိုးကောင်းကင်တွင် ချာန်ပျံနေသော ဆရာတော်ကြီးတစ်ပါးကို လေယာဉ်ပျံပေါ်မှာ ဖူးတွေ့ရသည်ဟုဆိုရာ အချို့ကလည်း ထိုဆရာတော်ကြီးမှာ အခြားမဟုတ် ကော့ခပုံဆရာတော်ကြီးဖြစ်ကြောင်း ဆိုကြသူများရှိပါသည်။ ထိုအဆိုကို အောက်ပါအတိုင်း အရှင်ဝေဒဂူက မှတ်တမ်းပြုခဲ့ပါသည်။

၁၉၇၈ ဆရာတော်သည် ယင်းသို့ တရားဘာဝနာများ ကြိုးစားပွားများ ကျင့်သုံးအားထုတ်ရင်း အေဒီ ၁၉၇၈ (၁၃၄၀ ခုနှစ်)တွင် ကောလာဟလသတင်းတစ်ခု ဖြစ်ပွားခဲ့၏။ ဖြစ်ပွားပုံကား ယင်းနှစ်တွင် လေယာဉ်မှူးများ လေယာဉ်ကိုမောင်းနှင်၍ ပျံသန်းနေစဉ် အာကာသ၌ ဘုန်းကြီးတစ်ပါးကို တွေ့မြင်ခဲ့သည်ဆို၏။ ထိုဘုန်းကြီးကို ဓာတ်ပုံရိုက်ပြီး ယူလာရာ အာကာသမှ ရလာသော ဓာတ်ပုံရှင် ဘုန်းကြီး၏ ရုပ်ပုံကလည်း ဆရာတော်၏ ရုပ်ပုံကဲ့သို့ပင် မျက်စိ၏ထောင့်တစ်နေရာ လယ်ယာဘက် နဖူးစွန်း၌ အမည်းအမှတ်တစ်ခု ပါရှိနေပြန်သည်။ သို့ကြောင့်လုပ်သားပြည်သူများက ဆရာတော်အစစ်ပဲလို့ ယူဆပြီး အပြောအလွှား တအံ့တသြ ကောလာဟလသတင်း ပြန့်ပွားခဲ့၏။ ဆရာတော်ကြီးကမူ ယင်းသို့ သတင်းဖြစ်ပွားနေကြောင်းကို မည်သို့မျှ ထွေထွေထူးထူး ပြောတော်မမူဘဲ မိမိအားထုတ်မြဲ တရားကိုသာ နေ့နေ့ ညည ကြိုးကြိုးစားစား အားထုတ်တော်မူလျက်ရှိသည်ဟု သိရပါသည်။

(ကျွမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၆၂ )

## အထူးအဆန်း လာဖူးကြသော ပရိသတ်များ

၁၉၇၈ အေဒီ ၁၉၇၈ ခု၊ စက်တင်ဘာလ ၉ ရက်၊ စနေနေ့ (၁၃၄၀ ခုနှစ်၊ တော်သလင်းလဆန်း ၈ ရက်)ဆရာတော်၏ မွေးနေ့တွင် သံဃာ့ဆွမ်းကျွေးလှူဒါန်းပွဲကို နှစ်စဉ်မပျက် ကျင်းပပြုလုပ်လာခဲ့ရာ ထိုနှစ်ထိုနေ့တွင်လည်း ယင်းသံဃာ့ဆွမ်းကျွေးပွဲကြီးကို အကြီးအကျယ်ပြုလုပ်ပါသည်။



ဤနေ့ ဤအချိန်အခါမျိုးရောက်လာ၍ ဆရာတော်ကြီး၏ မူလ တပည့်ရင်း အရှင်ဦးက္ကန္ဒောဘာသ (ဇာတိ ဝင်းရော်ဆိပ်ကြီးရွာ၊ ပဝတ္တိ ဘီလူးကျွန်း၊ ချောင်းဆုံမြို့နယ်၊ ရွာလွတ်ရွာ သတိပဋ္ဌာန်ကျောင်း)က မိမိ၏ဆရာရင်းကို ဖူးမြော်ပူဇော်လိုသော ဆန္ဒဖြင့် ဆရာတော်ကျောင်းသို့ ကြွသွားလေရာ မော်တော်ကားလမ်းမှ ကျောင်းသို့အထိ ၂ မိုင်အတွင်း တောလမ်းတစ်လျှောက်တွင် ပျားပန်းခပ်မျှ လူတွေသွားနေကြသည်ကို တွေ့ရှိရသဖြင့် အလွန်အံ့ဩကာ အောက်ပါအတိုင်း ပြန်လည်မိန့်ကြားခဲ့ပါသည်။

> ထိုအခါ အရှင်က္ကန္ဒောဘာသက လူတွေ ဒီလောက်များပြားတာ ဘယ်ကိုသွားကြမလို့လဲဟု မေးကြည့်သောအခါ ထိုလူစုသည် သံဖြူဇရပ်မြို့နယ် ဝါဂရူးကျေးရွာမှ ရွာသူရွာသား ဒဂဏ်များဖြစ်ကြပြီး အရှင်ဘုရား တပည့်တော်တို့ တစ်ဆင့်စကား သတင်းကြားဖူးသည်မှာ ဤတောင်ပေါ် တောရ ရေတံခွန်ကျောင်း တန်ခိုးရှင်ဖြင့် ပျံသန်းပြီးကြွနိုင်တယ်လို့ ကြားရပါတယ်ဘုရား၊ သူတစ်ပါးပြောပါ များလွန်းလို့ မရောက်ဖူးတာနဲ့ ဆရာတော်ကြီးဆီကို ယခုလို အရောက်သွားနေရပါတယ်ဘုရား ဤကဲ့သို့ ဝါဂရူးရွာမှ ဒါယကာများ၏ ပြောစကားကို နားနှင့်ဆတ်ဆတ် ကြားလိုက်ရပါသည်။
>
> ထိုမျှမကသေး မိမိသည် ဆရာတော်ကြီးကျောင်းသို့ ရောက်သွားသောအခါ၌လည်း ကျောင်းအောက်လှေကားရင်းမှစ၍ တစ်ကျောင်းလုံး ပရိသတ်များ ပြည့်ကျပ်နေသဖြင့် ကျောင်းတက်ခွင့် မရဘဲနေစဉ်၊ ထိုအခါ လူငယ်ဒါယကာတစ်ယောက်က ကျောင်းအောက်သို့ ဆင်းလာပြီးလျှင် အရှင်ဘုရား ဒီကို ကြွပါဘုရားဟုဆိုပြီး ၎င်းဒါယကာနှင့်အတူ သိမ်တွင်းသို့ ဝင်သွားပြီးလျှင် အပေါ် ထပ်သို့ တက်သွားရပါသည်ဟု မှတ်တမ်းတင်ထားပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၆၃ )

## နတ်ရေတွင်းတစ်တွင်း တောရကျောင်းနားမှာ ပေါ်သည်ဟူသော သတင်း

ထိုနှစ်တွင်ပင် ကရင်ပြည်နယ် ကြာအင်းဆိပ်ကြီးမြို့နယ် ဝင်းရော်ဆိပ်ကြီးရွာ အနောက်ဘက် ဆရာတော်ကြီး၏ တောရကျောင်းနားမှာပင် ကောလာဟလ သတင်းတစ်ခု ဖြစ်ပွားပြန်ပါသည်။

ဖြစ်ပွားပုံကား ဆရာတော်ကြီး၏ တောရကျောင်းအနီး မြောက်ဘက်ကျောင်းဝင်း ပြင်ပတစ်နေရာတွင် မဖြစ်စဖူး ထူးထူးကဲကဲ သယံဇာတ နတ်ရေတွင်းတစ်တွင်း အလိုအလျောက်ပေါ် ပေါက်လာသည်ဟူ၏။ ထိုနတ်ရေတွင်းမှ ရေများသည် လောကီသိဒ္ဓိ အမျိုးမျိုးပြီး မြောက်စေသည်ဟု အယူအဆရှိကြပါသည်။ အချို့လည်း ထိုရေသောက်၍ ရောဂါပျောက်သည်ဟု ဆိုကြပါသည်။ ထိုအချက်ကို အရှင်ဝေဒဂူက မှတ်တမ်းပြုထားပါသည်။ ဖတ်ကြည့်ပါ။

> ထိုသတင်းသည် ထိုနယ်တစ်ဝိုက်တွင် တောမီးလောင်သည့်ပမာ တစ်ခဏချင်း ပျံ့နှံ့သွားပြီး လူအများ ပျားပန်းခပ်မျှ သွားလာကြပါသည်။ ရောက်သူတိုင်း ယင်းနတ်ရေတွင်းမှ ရေကို သောက်သုံးရသဖြင့် ပိန်းကြာရွက်မှ ရေများ လျှောကျသွားသကဲ့သို့ ရောဂါဝေဒနာများ ပျောက်ကင်းသွားကြသည်။ မျက်စိမှုန်နေသူတို့က ယင်းရေကို မျက်နှာသစ်ရသဖြင့် ချက်ချင်း မျက်စိကြည်လင်ပြီး နဂိုပကတိအတိုင်း ပြန်ဖြစ်သည်ဟု ဆိုသူလည်းရှိ၏။ ခြေ လက် မသန်မစွမ်း၍ သွားလာမရ ဒုက္ခဝေဒနာ ဖြစ်နေသူတို့ကလည်း ယင်းရေတွင်းမှရေကို သောက် ချိုး လိမ်းသုတ်ပြီး



ပြန်ကောင်းလာသည်။ အဖျားရောဂါ အမျိုးမျိုး နှိပ်စက်ခံနေရသော သူတို့ကလည်း စိတ်ညစ်ပြီး သေချင်သေပါစေတော့ ဒီရေကိုချိုးရလျှင် ကျေနပ်ပါပြီဟု နှလုံးသွင်းပြီး ချိုးလိုက်သည်။ ချိုးလိုက်ပြီးလျှင်မကြာပါ အဖျားရောဂါလည်း ကြက်ပျောက် ငှက်ပျောက်သလို အလိုလို ပျောက်သွားသည်ဟု ကြားရပါသည်။

ထို့ကြောင့် ယင်းရေတွင်းသို့ 'နတ်ရေတွင်း' ဟုခေါ်ပြီး ယင်းရေကိုလည်း 'နတ်ဆေး'ဟူ၍ အများကသမုတ်ကြသည်။ ယင်းနတ်ရေတွင်း သတင်းကို ကြားကြရသော ထိုနယ်တစ်ဝိုက်ရှိ လူတို့ သည် ယခု ဆရာတော်ကြီးဆီသို့လာသလိုပင် လှည်းနေလှေအောင်း မြင်းဇောင်းမကျန် ရောဂါသည်မှန်သမျှ လာရောက်ကြ၍ ယင်းရေကို မှိဝဲအသုံးပြုကြသည်ဟု ကြားရပါသည်။ ဤသတင်းဖြစ်ပွားပြီးနောက် တစ်နှစ်ကျော်ကျော် တန်ဆောင်မုန်းလ ကထိန်ပွဲတော်နေ့သို့ ရောက်သောအခါ စာရေးသူကိုယ်တိုင် ကထိန်ပွဲတော်ကို သွားရင်း ယင်းနေရာသို့ ရောက်သွားပါသည်။ ထိုအခါ ရေတွင်းမှ မြေကြီးကို တူးယူထားသဖြင့် လိုဏ်ကြီးတစ်ခုသဖွယ် ဖြစ်နေသည်ကို တွေ့ရှိရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၆၆-၆၇-၆၈ )

## နတ်တို့ ဘုရားရှိခိုးသံ အမြဲကြားရသည်ဆိုသော ဆရာတော်ကြီး

ကော့ခပုံဆရာတော်ကြီးအကြောင်းနှင့်စပ်လျဉ်း၍ ဆရာတော်ကြီး ကြည်ညိုဖွယ်ရာ အကြောင်းကိုလည်း ဖတ်ရှုမှတ်သားရပါသည်။ နတ်တို့၏ ဘုရားရှိခိုးသံကို ကြားရသည့် ဆရာတော်ကြီးဟူသော စာတစ်ပိုဒ်ကိုလည်း ဖတ်ရှုရပါသည်။

၁၉၇၇ အေဒီ ၁၉၇၇ - ၇၈ (၁၃၃၈ / ၃၉ ခုနှစ်) မှစ၍ ဆရာတော်ကြီး၏ စံကျောင်းအနီး သရက်ပင်ကြီးမှ ရုက္ခစိုးနတ်တို့ ဘုရားရှိခိုးသံ (သို့မဟုတ်) ပရိတ်ရွတ်သံကို ဆရာတော်သည် အမြဲကြားနေရသည်ဟုဆို၏။

ဟိုဟိုဒီဒီ အရပ်တစ်ပါးသို့ ကြွသွားသောအခါတွင်လည်း ယင်းနတ်တို့ ဘုရားရှိခိုးသံကိုပင် အမျှင်မပြတ် အမြဲကြားနေရသည်သာ။

## ဧည့်သည်များ လာလိမ့်မည်ဟု ကြိုတင်၍ ဆွမ်း ဆွမ်းဟင်းများ ပြင်ခိုင်းခြင်း

ထိုမှတစ်ပါး ထူးဆန်းသည်ကား ဆရာတော်ကြီးသည် သူနေရာ တိုက်ခန်းမှထွက်လာပြီး ကပ္ပိယကိုခေါ်၍ ယနေ့ ရပ်ဝေးမှ အာဂန္တု ရဟန်း သံဃာတော်များနှင့် လူဧည့်သည်များ မကြာမီရောက်လာတော့မည်။ ဆွမ်းများများချက်ထားဟု ပြောပြီးလျှင် သူနေရာ တိုက်ခန်းတွင်းသို့ ဝင်သွားပါသည်။ ဆရာတော်ပြောသည့်အတိုင်း မကြာမီ အာဂန္တုရဟန်းများ လူဧည့်သည်များ ရောက်လာပါတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၇၉)

ကော့ခပုံဆရာတော်ဘုရားသည် လောကီ လောကုတ္တရာ ကိစ္စတို့ကို ကြိုတင်၍သိနေကြောင်း၊ ထို့ကြောင့်လည်း ရံဖန်ရံခါအားဖြင့် ဆရာတော်ကြီးသည် မဖြစ်မီကတည်းက ကြိုတင်၍ ပြောထားခြင်းများလည်းရှိကြောင်း သိမြင်သူတို့က ပြောကြားကြပါသည်။ ဖတ်ကြည့်ပါ။



အစ ပထမက ဆရာတော့်စကားကို မည်သူမျှ ဂရုမထား မယုံကြည်ကြ။ ဆွမ်းကိုလည်း ထပ်မံ၍ချက်မထားကြ၊ အာဂန္တုဧည့်သည်တွေ တကယ်ရောက်လာတော့မှ ကပ္ပိယဦးဆိုင်က အံ့ဩပြီး အလောတကြီး အလုပ်များရပါတော့သည်။

နောင်သောအခါ ဆရာတော်ကြီးက ယင်းစကားမျိုးကို မိန့်တော်မူလျှင် ပေါ့ပေါ့တန်တန် မနေတော့ဘဲ ချက်ချင်းပင် ဆွမ်း၊ ဆွမ်းဟင်းများကို ပြင်ဆင်ထားရတော့သည်ဟု အတွင်းနေ ဒါယကာများကပြောပြ၍ သိရပါသည်။

(ကျွမ်းကိုး၊ ယင်းကျွမ်း၊ စာ၊ ၈၀ )

## မိုးရွာလိုက်မည်ဟု ကြိုတင်ဟော

တစ်ရံရောအခါကလည်း ကော့ခပုံဆရာတော်ဘုရားကြီးသည် သူရာသီမဟုတ်ဘဲ မိုးရွာမည့်အကြောင်းကို ကြို၍ပြောခဲ့ဖူးပါသေးသည်ဟု ကြည်ညိုရပါသည်။

တစ်ခါတုန်းကလည်း တပို့တွဲလမှာ မိုးရွာလိမ့်မည်ဟု ဆရာတော်က ကြိုတင်မိန့်တော်မူရာ ထိုအတိုင်းပင် မိုးရွာကြောင်းကိုလည်း ကွမ်တာကျေးရွာမှ ဒါယကာတစ်ဦးက ပြောဖူးသည်ကို ကြားသိရပါသည်။

(ကျွမ်းကိုး၊ ယင်းကျွမ်း၊ စာ၊ ၈၀ )

## ပုဂ္ဂိုလ်ထူး လူထူးတစ်ဦးကို တွေ့မြင်ရသည်ဟူသော အံ့ဖွယ်

တစ်ရံရောအခါ ကော့ခပုံဆရာတော်ကြီးသည် လူထူးလူဆန်း ပုဂ္ဂိုလ်ထူးတစ်ဦးကို မိမိအခန်းထဲတွင် တွေ့ခဲ့ပါသေးသည်။ ထိုပုဂ္ဂိုလ်သည် ဆရာတော်ကြီးအား အထူးတလည်အားဖြင့် လာရောက်ဖူးမြော်သည်ဟုလည်း ဆိုကြပါသည်။ မှတ်တမ်းရှာရာ အောက်ပါအတိုင်း တွေ့ရှိရပါသည်။

၁၉၇၇ အေဒီ ၁၉၇၇ ခု (၁၃၃၉ ခုနှစ်)တုန်းက ဖြစ်သည်။ ဆရာတော်ကြီးသည် တောရကျောင်းတွင် မိမိနေသောအခန်းကို အမြဲပိတ်ထားလေ့ရှိ၏။ သို့သော် ပြတင်းပေါက်များကို တစ်ခါတလေ ဖွင့်တာလည်းရှိ၏။ ဆွမ်းစားချိန်ကျရောက်တော့မှ တံခါးများကိုဖွင့်၍ အခန်းပြင်ဘက်သို့ထွက်လာပြီးလျှင် ဆွမ်းဘုဉ်းပေးလေ့ရှိ၏။ ဆွမ်းကိစ္စပြီးလျှင်ပြီးချင်း မိမိအခန်းတွင်းသို့ဝင်သွားပြီးလျှင် ယင်းနေ့အတွက် တစ်နေ့လုံး အပြင်မထွက်တော့ဘဲ အခန်းထဲမှာသာ အောင်းနေလေ့ရှိ၏။ ဆရာတော်နေသော အခန်းကား အလျား ၈ တောင်၊ အနံ ၇ တောင်သာသာမျှရှိသည်ဟူ၏။

**တစ်နေ့သောအခါ ဆရာတော်ကြီးသည် ဆွမ်းကိစ္စပြီးသောအခါ တံခါးပိတ်ပြီး အခန်းထဲသို့ဝင်သွားပါသည်။ အခန်းထဲမှာ ခေတ္တထိုင်၍ အပန်းဖြေနေရင်း ဝတ်ဖြူစင်ကြယ်နှင့် လူထူးတစ်ယောက်က ဘယ်လိုဘယ်က ဝင်လာသည်ကိုမသိပါ။ အခန်းထဲရောက်လာပြီး ဆရာတော်ကြီးကို မေးမြန်းလျှောက်ထားလေသည်။ 'ဆရာတော်ဘုရား ဆရာတော်ဘုရားရဲ့ သက်တော်က ဘယ်လောက်ရှိပြီလဲ မွေးသက္ကရာဇ်က ဘယ်ခုနှစ်မှာလဲဘုရား၊ မွေးနေ့ကော ဘာနေ့လဲဘုရား'ဟု မေး၏။**

(ကျွမ်းကိုး၊ ယင်းကျွမ်း၊ စာ၊ ၈၆)

၁၈၈၈ ထိုအခါ ဆရာတော်ကြီးက 'ငါ့မွေးသက္ကရာဇ်က ၁၂၅၀ ခုနှစ်ပါ၊ နေ့ကတော့



အင်္ဂါနေ့ပါ ဒကာကြီး'ဟု ဖြေသောအခါ ယင်းဝတ်ဖြူစင်ကြယ်နှင့်လူက ဆရာတော်၏ ရုပ်လက္ခဏာကို ကြည့်ရှုပြီး 'ဆရာတော်မှာ သက်တော်ရှည်မယ့် ဇာတာ လက္ခဏာ တော် ရှိပါတယ်ဘုရား၊ သက်တော် ၂၅၀ အထိ နေရလိမ့်မယ်၊ အင်္ဂါနေ့ ဆိုတော့ ခြင်္သေ့နံပေါ့၊ ခြင်္သေ့ဆိုတာမျိုးဟာ တောတောင်ထဲမှာသာ ပျော်လေ့ရှိပါတယ်။ ဒါ့ကြောင့်မို့ထင်ပါရဲ့ ဆရာတော်ကြီးဟာ တောတောင်ထဲမှာ အမြဲပျော်နေတာကိုး' ဟု ပြောလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၈၇ )

ထိုအခါ ဆရာတော်ကြီးက 'ဒကာကြီး ငါ တံခါးတွေကို လုံခြုံအောင် ပိတ်ထားလျက်နဲ့ ဘယ်လိုလုပ် ဒကာကြီးဝင်ရောက်လာသလဲ'ဟု မေးသောအခါ ယင်းလူက ပြုံးပြီး 'ဆရာတော် ဒီလောက်တံခါးပိတ်ထားရုံနဲ့ တပည့်တော်ဝင်ဖို့ မခဲယဉ်းပါဘူး'ဆိုပြီး ဆရာတော် တစ်ချက်မျက်နှာလွှဲပြီး တံတွေးထွေးနေသည့် ခဏမှာပင် ထိုလူသည် ပျောက်ကွယ်သွားပါတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၈၇ )

## အကြားအမြင် ကောလာဟလ

ကော့ခပုံဆရာတော်ဘုရားကြီးသည် အကြားအမြင်ရကြောင်း သတင်းစကား ဖြစ်ပွားခဲ့ပါသည်။ ထိုအကြောင်းနှင့်စပ်လျဉ်း၍ ကိုယ်တွေ့ကြုံဖူးသူတစ်ဦး၏ မှတ်တမ်းကို သာသနာပြု ဘဝခရီး စာအုပ်တွင် ဖတ်ရှုရပါသည်။

မုဒုံမြို့နယ်မှ ဦးကျော်သန်းဆိုသူ ဒါယကာ တစ်ယောက်က နေ့လယ်မွန်းတည့် ၁၂ နာရီအချိန်တွင် ဆရာတော်ကျောင်းသို့ ရောက်လာပြီး ဆရာတော်ကြီးကို ဦးချ ဝတ်ပြုပြီး ထိုင်နေလေ၏။

ထိုအခါ ဆရာတော်ကြီးက 'ကျော်သန်း ခုနတုန်းက မြရင် မော်တော်ကား စီးပြီး မော်လမြိုင်ကိုတက်သွားတယ်လေ၊ မမြင်လိုက်ဘူးလား' မေးရာ ဒကာ ကျော်သန်းက ဆရာတော် သူငယ်ပြန်နေတယ်လို့ထင်ပြီး 'ဆရာတော်ဘုရား မြရင်ဟာ အိမ်မှာပဲ ရှိပါတယ်၊ မော်လမြိုင်ကိုမသွားပါဘူး' ဘုရားဟုလျှောက်ရာ၊ 'အခုပဲ မြရင် ကားစီးပြီး မြို့တက်သွားတယ်လေ'ဟု ထပ်မံ၍ တစ်ဖန်ပြောသော်လည်း ဦးကျော်သန်း က မယုံဘဲ ငွတ်အတင်း ငြင်းနေပြန်ပါသည်။

ညနေ ၄ နာရီလောက် အချိန်တန်တော့ အိမ်သို့ပြန်လာရာ မြရင်နှင့် တွေ့ သောအခါ အကြောင်းအကျိုးကို မေးမြန်းတော့ မြရင်က 'ကိစ္စနည်းနည်း ရှိနေလို့ ၁ နာရီအချိန်မှာ မော်လမြိုင်ကို ခဏတက်သွားပါတယ်' ဟု ပြောရာ၊ ထိုအခါကျမှ ဦးကျော်သန်းနှင့် ဒကာများက 'ဆရာတော်ကြီးပြောတဲ့ စကားဟာမမှားဘဲ တကယ်မှန် နေပါကလား၊ သူမြင်နေလို့ပြောတာဖြစ်မယ်'ဆိုပြီး ဆရာတော်ကြီးပြောသည့်စကားကို ထိုအခါမှစ၍ စိတ်ဝင်စားလာပါတော့သည်။ ဂရုစိုက်၍ နားထောင်လေ့ရှိကြသည်။

အချို့က ဒီဆရာတော်ကြီးဟာ အကြားအမြင်ရထားတယ်လို့တောင် ပြောကြသေးသည်။ ဆရာတော်ကြီးကမူ မည်သူက မည်သို့ပင်ထင်ထင် မည်သို့ ပြောပြော မနောစိတ်ဝင်စားမှုမရှိဘဲ ပကတိ နေမြဲအတိုင်းပင် နေတော်မူ သည်ဟုဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၈၇-၈၈ )

## ဦးဖေတင်၏ အိပ်မက်ထူး



ကော့ခပုံ ဆရာတော်ဘုရားကြီးနှင့်စပ်လျဉ်း၍ နတ်များကပင် နှိုးဆော်လေသလောဟု အချို့က လည်း မိမိတို့၏ အိပ်မက်ထူး အိပ်မက်ဆန်းများနှင့်စပ်လျဉ်း၍ ပြန်လည်ပြောဆိုကြပါသည်။ ထိုအထဲတွင် မော်လမြိုင်ဒိုင်းဝန်ကွင်းအရပ်နေ ဦးဖေတင်ဆိုသူ၏ ဖြစ်ရပ်ကို ပြန်လည်တင်ပြပါမည်။ ဖြစ်ပွားပုံမှာ ဤသို့ဖြစ်ပါသည်။ အချိန်ကား ၁၉၈၄ ခုနှစ်လောက်ကဖြစ်ပါသည်။ အောက်တွင်ဖတ်ရှုပါ။

၁၉၈၄ အေဒီ ၁၉၈၄ ခု ၊ ဇူလိုင်လ ၁၃ ရက်၊ သောကြာနေ့ (၁၃၄၇ ခုနှစ် ပထမ ဝါဆိုလပြည့်ကျော် ၁ ရက်နေ့ )က ဖြစ်ပါသည်။ မော်လမြိုင် ဒိုင်းဝန်ကွင်း ကျိုက်ဖန် ပျဉ်းတောင်တန်းရပ်နေ အိမ်နံပါတ် ၅၀ ရှိ ဦးဖေတင်ဆိုသူသည် ဆရာတော်ဘုရားကို အလွန်ကြည်ညိုသော လူငယ် ဒါယကာတစ်ဦးဖြစ်သည်။

ယင်းလပြည့်ကျော် ၁ ရက်နေ့ ညသန်းခေါင်ကျော် ၁ နာရီအချိန်မှာ သူအိပ် ပျော်နေစဉ် အိပ်မက်မက်သည်မှာ ဘုန်းကြီးတစ်ပါး သူ့အိမ်ခေါင်မိုး၏ အထက် ကောင်းကင်ယံမှာ ဈာန်တန်ခိုးဖြင့် ပျံသန်း၍ ကြွသွားပါသည်။

ထိုအခါ ဦးဖေတင် အထူးအဆန်းဖြစ်နေ၍ အပေါ်သို့ မော့ကြည့်သောအခါ သူအင်မတန် ကြည်ညိုသော ဆရာတော်ဘုရားကြီး ဖြစ်နေကြောင်း ကောင်းစွာ သိရှိသောအခါ အလွန်ဝမ်းမြောက်ဝမ်းသာဖြစ်နေခိုက် အိပ်ရာမှလန့်နိုးလာပါသည်။

မိုးလင်းသောအခါ ဆရာတော်ကို ဆွမ်းကျွေးပင့်ချင်လိုသူနှင့် အင်မတန် ခင်မင်ရင်းနှီးသော မုဒုံမြို့ ပိန္နဲရပ်ကွက်၊ ဗိုလ်အောင်ကျော်လမ်းထိပ်နေ ဒေါ်ကွန်တို့ အိမ်သို့ သူ့ဇနီး ဒေါ်ရည်သင်းနှင့်အတူ ချက်ချင်းဆင်းသွားပါသည်။ ရောက်သောအခါ အကြောင်းမျိုးစုံမေးမြန်းတော့ လပြည့်ကျော် ၁ ရက် နေ့ကပင် ဆရာတော်ကြီးသည် ဦးဖေတင်တို့နေထိုင်သော မော်လမြိုင် မဟာရင်ကျောင်း (စာသင်တိုက်)သို့ ကြွသွား ပြီဖြစ်ကြောင်း ကောင်းစွာ သိရှိရသောအခါ 'ဆရာတော် မော်လမြိုင် ရောက်တာနဲ့တို့ အိပ်မက်တာပဲ၊ တယ်လဲထူးဆန်းပါကလား'ဟု ပြောသတဲ့။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၈၉-၉၀ )

ဤသို့ဖြင့် အိပ်မက်အတိုင်း မှန်ကန်နေသည်ဟု ကိုယ်တွေ့ပြန်လည် ပြောကြားကြပါသည်။ အချို့ကလည်း ဆရာတော်ကြီးနှင့်စပ်လျဉ်း၍ ထူးခြားသော အိပ်မက်များမက်ပြီးနောက် တကယ့်ကို ဖြစ်လာကြောင်း အဆိုရှိပါသည်။ ထိုအချက်ကို မော်လမြိုင် မဟာရင်ကျောင်းထိုင်ဘုန်းကြီး ဦးဇာဂရ၏ ဖြစ်ရပ်ဖြင့် သိရှိရပါသည်။

ထိုနည်းတူစွာ ဆရာတော် မော်လမြိုင် မဟာရင်ကျောင်းသို့ ရောက်ရှိနေချိန်တွင် ၎င်းမဟာရင် ကျောင်းထိုင်ဘုန်းကြီး ဦးဇာဂရကလည်း ကိစ္စတစ်ခုဖြင့် မိမိ၏ ဇာတိ ရပ်ရွာ ကော့ဘိန်းတောရ ဝါးတောကျောင်းသို့ ရောက်ရှိနေပါသည်။ ထိုည ဆရာ တော်ကြီး သူ့ကျောင်းသို့ ကြွရောက်နေကြောင်း အိပ်မက်ထဲတွင်မြင်မက်နေ ပါသည်။

နံနက်အရုဏ်ကျင်း၍ မိုးလင်းချိန်သို့ ရောက်သောအခါ မိမိအိပ်မက်ကို အခြားသီတင်းသုံးဖော် ရဟန်း သာမဏေတို့အား ပြောပြသောအခါ ဆရာတော် ကြီးက အရှင်ဘုရားကို မျှော်နေပြီထင်တယ်ဟု အများက ပြောဆိုနေစဉ် အတွင်းမှာ မကြာမီ စာတစ်စောင်ရောက်လာ၍ ဖွင့်ကြည့်လိုက်သောအခါ ထိုစာထဲမှာ



ဆရာတော်ကြီး သူ့ကျောင်းသို့ တကယ်ရောက်နေကြောင်းကို သိရှိသောအခါ ဝတ်ကြီးဝတ်ငယ်အသွယ်သွယ်ကို ပြုစုရန် မော်လမြိုင်သို့ ချက်ချင်းဆင်းလာပါတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၉၀ )

ထိုအကြောင်းနှင့်စပ်လျဉ်း၍ ကော့ခပုံတောရ ဆရာတော်ကြီး ကြွရောက်လေရာ အရပ်ဌာနများသည် အံ့ဖွယ်ဖြစ်သည်ဟူ၍ ဖတ်ရှုရပါသည်။ နတ်များနှိုးဆော်နေသလားမသိပါ။ လူတွေက တအံ့တဩအမျိုးမျိုး ပြောကြဆိုကြ အိပ်မက်မြင်မက်ကြသည်။

## နတ်များ လာရောက်ပူးမြော်ခြင်းပေလော

အချို့တလည်း ကော့ခပုံဆရာတော်ကြီးသည် နတ်များနှင့် စကားပြောဆိုကြကြောင်း၊ ပြန်လည်ပြောဆိုကြပါသည်။ မှတ်တမ်းရှာရာ သာသနာပြုဘဝခရီးတွင် တစ်စွန်းတစ်စ တွေ့ရှိရပါသည်။

အနီးရှိ ပုဂ္ဂိုလ်များပြောစကားအရ ဆရာတော်ကြီးသည် သူ့ကျောင်းမှာ တစ်ခါတစ်လေ ပြတင်းပေါက်တံခါးများဖွင့်ပြီး 'ကဲ ကဲ သွားသွား မလာနဲ့'ဟု လက်ကာပြပြီး တစ်ပါးတည်း စကားပြောနေပါသည်။ တောင်စောင့်နတ်၊ သို့မဟုတ် ရုက္ခစိုးနတ်တွေက ခဏခဏလာပြီး ဆရာတော်နှင့် စကားပြောနေသည်။ ဆရာတော်ကြီးကိုယ်တိုင် တစ်ခါတစ်လေ နတ်တွေလာကြောင်း၊ တွေ့မြင်နေရကြောင်း ပြောပြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ၊ ၈၉-၉၀ )

အထက်ပါ အချက်အလက်များကို အရှင်ဝေဒဂူ စီရင်ရေးသားသည့်ကျမ်းတွင် ဖတ်ရှုခဲ့ရသဖြင့် သိရှိရခြင်းဖြစ်ပါသည်။ ၁၉၈၇ ခု၊ ဇွန်လတွင် ပထမအကြိမ်၊ ရိုက်နှိပ်၍ ချောင်းဆုံမြို့နယ်၊ ရွာလွတ်ရွာ သတိပဋ္ဌာန်ကျောင်း၊ ဦးကုဏ္ဍဘာသ ထုတ်ဝေသည့် မွန်ပြည်နယ်၊ မုဒုံမြို့နယ်၊ ကော့ခပုံကျေးရွာ တောင်ပေါ်တောရ ရေတံခွန်ကျောင်း ဓမ္မယုတ္တိနိကာယ မဟာရင်ဂိုဏ်းကြီး၏ ဦးစီးမဟာနာယက ဆဋ္ဌဂိုဏ်းချုပ် ဆရာတော် ဘဒ္ဒန္တဇောတိပါလ မဟာထေရ်မြတ်၏ သာသနာပြု ဘဝခရီး(ခေါ်)ထေရုပ္ပတ္တိကထာစာတမ်းကို ဖတ်ကြည့်လျှင် ပိုမို၍ကြည်ညိုရပါလိမ့်မည်။ ဖတ်ကြည့်ကြပါ။

၁၉၈၇ သက်တော် ၉၉၊ ဝါတော် ၈၀ အရောက် ၁၉၈၇ ခုနှစ် ဇွန်လ ၁၄ ရက်နေ့၌ ညည်းညူခြင်း အလျဉ်းမရှိဘဲ ကုလားထိုင်ပေါ်တွင် လျောင်းစက်ရင်း ပျံလွန်တော်မူပါသည်။

(ကျမ်းကိုး၊ မြတ်မင်္ဂလာမဂ္ဂဇင်း၊ အတွဲ ၁၂ အမှတ် ၂ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ)

စာတတ်တော်များ တဖွားဖွားကျတော်မူသော

# တော်ကူးဆရာတော်

အေဒီ ၁၈၉၁ – ၁၉၈၆ (၁၂၅၂– ၁၃၄၈)





တော်ကူးဆရာတော်၏ ဘဝဖြစ်စဉ်နှင့်တကွ ဆရာတော်၏ တရားအားထုတ်နည်းအရ ကြရိယာပုတ်ရှည်ရှည်ဖြင့် တရားရှုမှတ်သဖြင့် ထူးဆန်းစွာ ရောဂါပျောက်ကင်းပုံအကြောင်းများကို ရန်ကုန်တက္ကသိုလ် ဓာတုဗေဒပါမောက္ခ ဒေါက်တာမင်းတင်မွန်သည် ရန်ကုန်မဟာစည်သာသနာ့ရိပ်သာ၌ အများပရိသတ်နားလည်အောင် နိုင်ငံတကာကသိရှိအောင် ရည်ရွယ်၍ အင်္ဂလိပ်ဘာသာဖြင့် ကျကျနနကြီး ဟောပြောခဲ့ဖူးလေသည်ကို ကျွန်တော် ကောင်းစွာမှတ်မိပါသည်။

ထိုစဉ်က ဆရာမင်းတင်မွန်မှာ သထုံဆောင် အဆောင်မှူးအဖြစ် ထမ်းဆောင်လျက်ရှိပြီး၊ ကျွန်တော်က အင်းဝဆောင်တွင် အဆောင်နည်းပြအဖြစ် ဆောင်ရွက်လျက်ရှိပါသည်။ ထိုစဉ်က အင်းဝဆောင် အဆောင်နည်းပြများမှာ ဦးခင်မောင်သိန်းနှင့် ဦးတင်သိန်းတို့ ဖြစ်ကြပါသည်။ ဦးတင်သိန်းသည် အဆောင်၏ အောက်ဆုံးထပ်မှာ နေပါသည်။ သူသည် ဘူမိဗေဒ နည်းပြဆရာဖြစ်၏။ သို့သော် ဘူမိဗေဒ ပါရဂူဘွဲ့ကို နိုင်ငံခြားမှာ ယူခဲ့ပြီးဖြစ်၏။ သို့သော်လည်း ဒေါက်တာတင်သိန်းသည် နည်းပြအဖြစ်ပင် ရှိနေသေး၏။ ဆရာဦးခင်မောင်သိန်းမှာ ဥပဒေဌာန နည်းပြဆရာဖြစ်၏။ သူက အဆောင်၏အလယ်ထပ်မှာနေပါသည်။ ကျွန်တော်က အဆောင်၏ အပေါ်ဆုံးထပ်မှာနေပါသည်။ နောင်သောအခါ ဦးခင်မောင်သိန်းသည် မန္တလေးတက္ကသိုလ် ဥပဒေပါမောက္ခ ဥပဒေဌာနမှူးကြီး ဖြစ်လာ၏။ နောင်သောအခါ ဒေါက်တာတင်သိန်းမှာ ဘူမိဗေဒ အကျော်အမော် ပါမောက္ခဖြစ်လာ၏။

သို့သော်လည်း ထိုစဉ်က ကျွန်တော်တို့အားလုံးမှာ နည်းပြည်ဆရာများသာ ဖြစ်ကြပါသည်။ ထိုအချိန်တွင် ဆရာဒေါက်တာ မင်းတင်မွန်သည် သထုံကျောင်းဆောင်တွင် အဆောင်မှူးအဖြစ် တာဝန်ထမ်းဆောင်လျက်ရှိ၏။ တစ်ပြိုင်တည်းမှာပင် ရန်ကုန်တက္ကသိုလ် ဓာတုဗေဒ ကထိကကြီးလည်းဖြစ်ပါသည်။ တစ်ပြိုင်တည်းမှာပင် ဆရာမင်းတင်မွန်သည် တက္ကသိုလ်ဓမ္မာရုံကြီးမှာပင် ဓမ္မကထိကကြီးဖြစ်ပါ၏။

ထိုစဉ်ကတည်းက ဆရာမင်းတင်မွန်သည် အဘိဓမ္မာတတ်သည်ဟု တက္ကသိုလ် လောကတွင် ဟိုးဟိုးကျော်လျက်ရှိပါသည်။ ဆရာမင်းတင်မွန်ရေးသားသော တော်ကူးဆရာတော်နှင့် ရောဂါပျောက်ကင်းခြင်းများစာအုပ်မှာ အကြိမ်ကြိမ်ရိုက်နှိပ်ရသော စာအုပ်ဖြစ်ပါသည်။ ကျွန်တော် သိသလောက် (၆)ကြိမ်ထက်မနည်းပါ။

၎င်းအပြင် ဆရာမင်းတင်မွန်၏ တော်ကူးကျင့်စဉ် စာအုပ်ကလေးကလည်း အလွန်လူကြိုက်များ၏။ တစ်အုပ်မှာ ၇ ကျပ် ဖြစ်သဖြင့် ဝယ်ယူအားပေးလျှုဒါန်း ကြသည်မှာလည်း အလျှံပယ်ဖြစ်၏။ ၎င်းအပြင် ဆရာမင်းတင်မွန်ပင်လျှင် ရှေးဘဝ နောက်ဘဝ သိပ္ပံနည်းကျ အထောက်အထားများ ရေးသားထုတ်ဝေခဲ့ပြန်လေသည်။ ထိုစာအုပ်လည်း အကြိမ်ကြိမ်ရိုက်၍ မလောက်သောစာအုပ်ဖြစ်၏။ ထိုစဉ်က ထိုစာအုပ်မှာ ကျွန်တော်မှတ်မိသလောက်ပြောရလျှင် တစ်အုပ်ဈေး ၄၀ ကျပ် ဖြစ်၏။ တော်ကူးကျင့်စဉ် စာအုပ်မှာ တစ်အုပ် ၇ ကျပ် ဖြစ်၏။ ဝိပဿနာဂုဏ်ထူးဆောင် စာအုပ်မှာ ၂၄ ကျပ်ဖြစ်၏။

နောင်သောအခါ ဆရာမင်းတင်မွန်ပင်လျှင် တော်ကူးဆရာတော်၏ ဘဝဆည်းဆာ၏ ကျင့်စဉ်များ စာအုပ်ကိုပင်လျှင် ရေးသားပြန်လေသည်။ မှတ်မှတ်ရရ ပြောရလျှင် စာအုပ်မှာ တစ်အုပ်ကို ၃၂ ကျပ်ဖြစ်လေသည်။ ထိုစာအုပ်မှာ ကျွန်ုပ်တို့ အကြိမ်ကြိမ်ဖတ်ရှုသော စာအုပ်များ ဖြစ်ကြရလေသည်။ ထိုစာအုပ်များမှာ အခြေခံ၍ တော်ကူးဆရာတော် မဟာထေရုပ္ပတ္တိကထာနှင့် မဟာကျင့်စဉ်တို့ကို ရရှိပါသည်။

သေလည်းမတောင့်တင်း ပုပ်နံ့ကင်း ဟူ၍လည်းကောင်း၊ ထူးခြားသည့် ဂုဏ်ရည်များ ဟူ၍လည်းကောင်း၊ အခန်း ၄ - ၅ တို့တွင် သေချာစွာ ကြည်ညိုဖွယ်ရာ ဖတ်ရှုရပါသည်။ တော်ကူးကျင့်စဉ်တရားကို ကျင့်ကြံလိုသူတို့အား အခန်း ၆ ကို ဖတ်ရှု၍ ကျင့်ကြံကြောင်း သိရှိရပါသည်။ ကြည်ညိုဖွယ်ရာ အကြောင်းတို့ကို အတွင်းကျကျ ကြည်ညိုနိုင်အောင် အတွင်းကျကျ ဖွင့်ဖော်ရေးသားထားသော ဒေါက်တာမင်းတင်မွန်၏ အခန်း ၄ - ၅ ကိုပင် ကိုးကား၍ ပြန်လည်ဖော်ပြပါမည်။ ထပ်ဆင့် ကြည်ညိုနိုင်စေလိုပါသည်။ အောက်တွင်ဖတ်ကြည့်ပါ။

တော်ကူးဆရာတော်၏ ငယ်စဉ်ဘဝကို ဤသို့ သိရှိရပါသည်။



**ဖွားသက္ကရာဇ်**

၁၈၉၀ တော်ကူးဆရာတော် ဦးနန္ဒိယသည် အေဒီ ၁၈၉၀ ခု၊ ဇူလိုင်လ ၃ ရက်၊ ကြာသပတေးနေ့ (ကောဇာသက္ကရာဇ် ၁၂၅၂ ခုနှစ်၊ ဝါဆိုလပြည့်ကျော် ၃ ရက်) နေ့တွင် ဖွားတော်မူသည်။

**ခန္ဓာဝန်ချတော်မူသောနှစ်**

၁၉၈၇ အေဒီ ၁၉၈၇ ခု၊ ဧပြီလ ၁၃ ရက်၊ (၁၃၄၈ ခု၊ တန်ခူးလပြည့်နေ့) သင်္ကြန်အကြတ်နေ့ ညဥ့် ၇ နာရီ ၄၈ မိနစ်တွင် ပျံလွန်တော်မူသည်။ ပျံလွန်သည့်အချိန်၌ သက်တော် ၉၇ နှစ်ရှိပြီး ဝါတော် ၄၂ ဝါ ရှိပါသည်။

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘဝဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီဂီပုံနှိပ်တိုက်၊ စာ ၈၀)

တော်ကူးဆရာတော်ဘုရားကြီး၏ ဂုဏ်သတင်းမှာ ပြည်တွင်းမှာသာမက ပြည်ပအထိ ကျော်ကြားလျက်ရှိပေသည်။ ထိုသတင်းနှင့် လျော်ညီစွာပင်လျှင် တော်ကူးဆရာတော်ဘုရားကြီး ခန္ဓာဝန်ချတော်မူသောအခါ ပြည်နှင့်အဝှန်း စိတ်ဝင်စားကြပါသည်။ ကြည်ညိုလွန်းသဖြင့် သတင်းကို နားစွင့်ရာ အောက်ပါအတိုင်းသိရပါသည်။

ဆရာတော် ပျံလွန်တော်မူသည့်အချိန်၌ ကျောင်းသခ်မ်းတစ်ခုလုံး ထူးထူးခြားခြား ဆိတ်ငြိမ်လျက်ရှိသည်။ ခါတိုင်း ညဥ့်များ၌ ခွေးဟောင်သံများ ညဥ့်ငှက်သံများနှင့် လူသံများကို ကြားနေခဲ့ရ၏။

ထိုပျံလွန်တော်သည့်ညဥ့်၌ ပျံလွန်ချိန်လောက်တွင်တစ်ကြိမ် ညဥ့် ၁၀ နာရီခန့်တွင်တစ်ကြိမ်၊ နံနက် ၁ နာရီခန့်တွင်တစ်ကြိမ်၊ နံနက် ၄ နာရီခန့်တွင်တစ်ကြိမ် လေးကြိမ်တိုင်တိုင် ကျောင်းဝန်းတစ်ခုလုံး အလွန်သင်းပျံ့မွှေးကြိုင်နေပါသည်။

ကျောင်းဝန်းအတွင်းရှိ စေတီပတ်ဝန်းကျင်၌ တရားရှုမှတ်နေကြသော ယောဂီများသည် အလွန်ထူးခြားသည့် ထိုမွှေးရနံ့ကို ရရှိကြသည့်အခါ မည်သည့်အပင်များမှ အနံ့ထွက်လာသနည်းဟူ စူးစမ်းသည့်အနေဖြင့် သစ်ပင် ပန်းပင်များကို လိုက်နမ်းကြည့်ကြ၏။ ကျောင်းများပေါ် နှင့် ဓမ္မာရုံပေါ် တို့တွင် ရှိနေကြသော လူအပေါင်းတို့သည်လည်း ထိုမွှေးရနံ့ကို ရှူရှိုက်ကြရသည်ဖြစ်၏။

မည်သည့် ပန်းရနံ့နှင့်လည်းမတူသော ထိုမွှေးရနံ့ကား မည်သည့်အကြောင်းကြောင့် သင်းပျံ့လေသနည်း။ ဆရာတော်၏ ဇီဝိန်ချုပ်ငြိမ်းပြီးသော ရုပ်ကလာပ်တော်ကို နတ်များကပင် ပူဇော်ခြင်းဖြစ်လေသလော။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၀)

တော်ကူးဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကိစ္စနှင့်စပ်လျဉ်း၍ အများဆန္ဒမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

**သေလည်း မတောင့်တင်း ပုပ်နံ့ကင်း**

တော်ကူးဆရာတော် ပျံလွန်ပြီးသည့်နောက် ရုပ်ကလာပ်တော် မပုပ်မနံ့ရန် ဆေးသွင်းသင့်ကြောင်း၊ ခံတွင်းမှ ဓာတ်ဆီလောင်းထည့်သင့်ကြောင်း၊ ဓာတ်မီးခြစ်



ကျောက်ထည့်ထားသင့်ကြောင်း စသည်ဖြင့် အမျိုးမျိုး အကြံပြုကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၂)

ရုပ်ကလာပ်တော်ကို မည်သည့်ဆေးနှင့်မျှ မပြုပြင်ဘဲ နဂိုပကတိအတိုင်းထားရန် လိုလားသည့်ဘက်က လူများစုဖြစ်သည့်အတွက် သူတို့၏ ဆန္ဒအတည်ဖြစ်သွားပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၂)

တော်ကူးဆရာတော်ဘုရားကြီး၏ ကြည်ညိုဖွယ်ရာများမှာ သက်ရှိထင်ရှား ရှိစဉ်ကတည်းကပင် ရှိခဲ့လေသည်။ ခန္ဓာဝန်ချတော်မူသောအခါ ပိုမိုထင်ရှားစွာ သိလာရပါသည်။ ဖတ်ကြည့်ပါ။

## သက်ဝင်လှုပ်ရှား ဆံတော်များ

ဆရာတော် မပျံလွန်မီက ရိတ်သိမ်းထားသော ဆံစကလေးများသည် ပုလင်းအတွင်း၌ တစ်ပင်နှင့်တစ်ပင် လိမ်ယှက်ပြီး ခြင်းလုံးအသွင်၊ စေတီအသွင် ပုံဆောင်လာကြသည်။

တော်ကူးရိပ်သာတွင် သီတင်းသုံးနေသော ဦးဝါယာမသည် ဆရာတော်၏ ဆံပင်အနည်းငယ်ကို ပင်နီဆီလင် ပုလင်းလွတ်တစ်လုံး၌ ထည့်ထား၏။ ဆံပင်များ ပိဝပ်နေရန် ခဲတံတစ်ချောင်းနှင့် တမင်တကာ ဖိချထားခဲ့၏။ တစ်ရက် နှစ်ရက် ကြာလျှင် ဆံပင်တစ်ချောင်းစီသည် အသက်ဝင်လာသည့်ပမာ လူးလွန့်ကြွထောင်လာ၏။ တစ်ပင်နှင့်တစ်ပင် တဖြည်းဖြည်းပူးယှက်ကာ ခြင်းလုံးကဲ့သို့ လုံးလာကြ၏။ ထို့နောက် အထက်ပိုင်းရှိ ဆံစများသည်စုယှက်လျက်က စေတီအသွင် ချွန်တက်လာကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၅)

## ဆံတော်များ စေတီအသွင်

တော်ကူးဆရာတော်ဘုရားကြီး၏ အံ့ဩဖွယ်ကောင်းလောက်အောင် ကြည်ညိုမှုများကို ကျွန်ုပ်တို့သည် လိုက်လံရှာဖွေဖတ်ရှုရာ ကိုယ်တွေ့မျက်မြင် မှတ်တမ်းတင်ထားသည်များကို အောက်ပါအတိုင်း ဖတ်ရှုရပါသည်။

သို့အတွက် ဆရာတော်၏ ဆံပင်များကို သူသူငါငါ လိုချင်လာကြသည်မှာ မဆန်းပါ။ ထိုမျှသာမက ဆရာတော် ဝတ်ရုံသုံးစွဲခဲ့သည့် သင်္ကန်းများ၊ သင်းပိုင်များ၊ မျက်နှာသုတ်ပဝါနှင့် လက်ကိုင်ပဝါများ အခြားအသုံးအဆောင်များတို့ကိုလည်း လက်ဦးရာ ယူငင်ကြတော့၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၅)

## သဘာဝ ဆန့်ကျင်လျက်ရှိခြင်း

ခန္ဓာဝန် ချတော်မူပြီးသော တော်ကူးဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်မှာ သဘာဝကို ဆန့်ကျင်လျက်ရှိသဖြင့် ကောင်းစွာလေ့လာကြသည်ဟု ဆိုပါသည်။

တော်ကူးဆရာတော်၏ ရုပ်ကလာပ်ကို ၇၂ နာရီထိ ဒေါက်တာသိန်းဌေးဖေသည် အနီးကပ်စမ်းသပ်ခဲ့၏။ ထို့နောက် ၁၀၅ နာရီတိုင်အောင် မိမိတပည့်



ဆရာဝန်အား စမ်းသပ်စေပြီးသည့်အခါ ဆရာတော်၏ ရုပ်ကလာပ်သည် တောင့်တင်းမှုမရှိကြောင်း ဒေါက်တာသိန်းငွေးဖေ မှတ်ချက်ချခဲ့၏။

ဆရာတော်၏ရုပ်ကလာပ်ကို (၅၂)ရက်အထိသာ ထားရှိခဲ့ရာတွင် နောက်ဆုံးရက်အထိ ခြေလက်များကိုလည်းကောင်း ခြေချောင်း လက်ချောင်းများကိုလည်းကောင်း ကွေးဆန့်၍ရပါသည်။ အောက်မေးစေ့ကိုပင် လှုပ်ရှား၍ရကြောင်းကို ကျွန်တော်၏ရှေ့၌ စမ်းသပ်ခဲ့ကြပါသည်။

အထူးဆုံးအချက်မှာ ဆရာတော်၏ရုပ်ကလာပ်သည် သဘာဝကို ဆန့်ကျင်လျက် ဖူးရောင်ပုပ်ပွခြင်း လုံးဝမရှိခြင်းပင်တည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

တော်ကူးဆရာတော်ကြီး၏ ဆရာစဉ်ဆက်နှင့်ပတ်သက်၍ အောက်ပါအတိုင်း ကြားနာ သိရှိရပါသည်။

## ဆရာတစ်ဆူဖြစ်သော မဟာစည်ဆရာတော်

တော်ကူးဆရာတော်၏ နည်းနာနိဿယညွှန်ပြသည့် ဆရာတစ်ဆူဖြစ်တော်မူသော မဟာစည်ဆရာတော်ကြီး ပျံလွန်တော်မူသည့်အခါ အလောင်းတော်ကို မီးသင်္ဂြိုဟ်ပြီးလျှင် ကြွင်းကျန်ရစ်သည့် ဓာတ်တော်မွေတော်များကို ဗိမာန်တည်ဆောက်၍ ပူဇော်ထားကြမည်ဖြစ်၏။

## ဆရာတစ်ဆူဖြစ်သော ဦးပဏ္ဍိဝ

တော်ကူးဆရာတော်ဘုရား၏ ကမ္မဋ္ဌာနစရိယဆရာတော်ဖြစ်သော မော်လမြိုင်မြို့ သတိပဋ္ဌာန်ဆရာတော် ဦးပဏ္ဍိဝ ပျံလွန်တော်မူသည့် အခါ၌လည်း အလောင်းတော်ကို မီးသင်္ဂြိုဟ်ပြီးသော် ဓာတ်တော်မွေတော်များကို ဆရာတော်မှာကြားခဲ့သည့်အတိုင်း မြစ်လေးဝဆုံရာ မုတ္တမကွေ့ထဲ၌ ရေမျှောလိုက်ကြ၏။

တော်ကူးဆရာတော်ကြီး၏ ရုပ်ကလာပ်တော် မီးသင်္ဂြိုဟ်ရာတွင် ကြည်ညိုသူများ၏ ဆန္ဒများမှာ အောက်ပါအတိုင်းဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

## ဓာတ်တော် သပိတ်တစ်လုံးစာ

အလောင်းတော်ကို မီးသင်္ဂြိုဟ်ရာတွင် ဓာတ်တော်လုံးများ အပြွတ်လိုက်ကျလိမ့်မည်ဟု ကျွန်တော်တို့ အထူးမျှော်လင့်ခဲ့ကြ၏။ သို့သော် မီးသင်္ဂြိုဟ်သောနည်းမှာ မီးပြင်းလွန်းလှသည်။

ဈာပနဟူသည် ပြာကျသည်အထိ သင်္ဂြိုဟ်ရမည် ဟူသော ညွှန်ကြားချက်ကို လိုက်နာနေသည့်အလား မီးသင်္ဂြိုဟ်သူတို့က မီးအရှိန်ပြင်းအောင် ထင်းပေါက်များကို မီးထဲသို့ တွင်တွင်ထည့်ပေးကြ၏။ ထိုနေ့ နေဝင်မိုးချုပ်သည်အထိ မီးသင်္ဂြိုဟ်ကြသည့်အပြင် မီးခဲများကိုလည်း ညဉ့်လုံးပေါက် ဆက်လက် မီးလောင်နေစေသည်ဟု နောက်၌ ကျွန်တော် ကြားသိရပါသည်။

နံနက်မိုးလင်းသည့်အခါမှ မီးငြှိမ်းသတ်ပြီး အရိုးဓာတ်တော်များကို ကောက်



ယူကြသည်။ မီးပြင်းလောင်ကျွမ်းခံထားရသည့်ဒဏ်ကြောင့် အရိုးများစွာ ပြာအဖြစ်သို့ ကူးပြောင်းသွားကြလေပြီ။ သင့်ရုံကြီးမားပြီး ဖြူဖွေးနေသည့် အရိုးဓာတ်တော်များကို သပိတ်တစ်လုံးစာမျှသာ ရရှိပေတော့သည်။

အရိုးပြာများမှာ တလက်လက် ဝင်းပနေကြသည်။ ပြာပုံကို စနစ်တကျ စစ်လိုက်သည့်အခါ မီးလောင်ကျွမ်းထားသော စွယ်တော်လေးချောင်းနှင့် အနီရောင်၊ အညိုရောင် အဖြူရောင် ဓာတ်တော်လုံး သေးသေးအချို့ကို ရရှိပါသည်။

တော်ကူးဆရာတော်ကိုယ်စားပြုသည့် ဓာတ်တော်များနှင့် သပိတ်တော်၊ ပဒုမ္မာသက်န်းတော်၊ ကြာသက်န်းတော် စသည့် အသုံးအဆောင်ပစ္စည်းများကို ကျယ်ဝန်းသည့် မှန်ခေါင်းအတွင်း၌ထည့်၍ ဓမ္မာရုံကြီးတွင် ပူဇော်ပြသထားကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၀၈ )

## မသေဆေး ရှာဖွေခြင်း

တော်ကူးဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကထာကို လေ့လာရာတွင် လွန်စွာ စိတ်ဝင်စားဖွယ်ရာ အချက်အလက်များ တွေ့ရှိရပေသည်။ တော်ကူးဆရာတော်ကြီးသည် လူဝတ်ကြောင်ဘဝက ရုပ်ပုံလွှာမှာ ဤသို့ဖြစ်ပါသည်။

> ဆရာတော်သည် လူဝတ်ကြောင် ဦးထွန်းရီဘဝကပင် မအို မနာ မသေသောတရားကို ရှာမှီးရန်အတွက် တော်ကူးရွာအနီး ကျောက်ရစ်ဘုန်းကြီးကျောင်းသို့သွားလျက် ကျောင်းထိုင်ဆရာတော်ထံ နည်းနာတောင်းခံခဲ့၏။ ဆရာတော်သည် မိမိကျင့်ကြံအားထုတ်နေသော အင်္ဂရတ်ထိုးခြင်းအတတ်နှင့် အာလောက ကသိုဏ်း (အလင်းရောင်ကသိုဏ်း)ရှုနည်းတို့ကို သင်ကြားပြသပေးလိုက်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၁)

## အင်္ဂရတ်ဆရာဖြစ်ခဲ့ခြင်း

တော်ကူးဆရာတော်လောင်းလျာ ဦးထွန်းရီသည် ရှေးသရောအခါက အင်္ဂရတ်သမား ဖြစ်ခဲ့ဖူးလေသည်ဟု သိရပါသည်။ နောင်မှ တစ်ဖြစ်လဲခြင်း ဖြစ်ပေသည်။

> ပင်ကိုဇွဲလုံ့လ ထက်မြက်သော ဦးထွန်းရီသည် ဆရာသမားအား ရိုသေမှု ဆရာညွှန်ပြသော နည်းနိဿယတို့၌ ယုံကြည်မှုဖြင့် အင်္ဂရတ်ထိုးခြင်းအလုပ်ကို မနေမနား ကြိုးစားလုပ်ကိုင်လေ၏။
>
> 'ဘုန်းကြီးတို့ လူဝတ်ကြောင်ဘဝက အင်္ဂရတ်ထိုးတာ မီးသွေးကို တစ်လှည်းတိုက် နှစ်လှည်းတိုက် ဝယ်ရတယ်ကွယ့် နေ့လုံးပေါက် ညဥ့်လုံးပေါက်ပေါ့၊ ဘုန်းကြီးဖိုထိုးလို့ အရည်မပျော်တဲ့သံဆိုတာမရှိဘူး'

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၁)

> မလျှော့သော ဇွဲလုံ့လဖြင့် လုပ်ကိုင်နေသူနောက်ကို အောင်မြင်မှုသည် လိုက်ပါလာမြဲထုံးတမ်းအရ အင်္ဂရတ်ဖိုထိုးခြင်းမှ အရည်အသွေးကောင်းမွန်သော ဓာတ်လုံး ၃ လုံးကို ဦးထွန်းရီ ရရှိခဲ့၏။ တစ်လုံးကို ရဟန်းတစ်ပါးအားပေးလှူ၏။ တစ်လုံးမှာ ပျောက်သွားပြီး ကျန်တစ်လုံး (အရည်အသွေး အကောင်းဆုံးအလုံး)ကို တော်ကူးဆရာတော် ဆောင်ထားခဲ့၏။



ဇင်းခေတ်လုံး၏ စွမ်းရည်နှင့် ပတ်သက်၍ ဆရာတော် မိန့်ဆိုဖူးသည်မှာ -

'တစ်ခါက ဘုန်းကြီးနေမကောင်းလို့ မော်လမြိုင်ဆေးရုံမှာ ဆေးတက်ကုရတယ်၊ သူနာပြုဆရာမက ဘုန်းကြီးကို ဆေးထိုးတယ်၊ သူ့အပ်ကို ဘုန်းကြီးအသားထဲ ထိုးထည့်လို့မရဘူး၊ သူနာပြုဆရာမက ဘယ့်နှယ်မဝင်တာတုံးဆိုပြီး အတင်းဖိထိုးတယ်၊ ထင်ဆို အပ်ပြုတ်သွားရော၊ ဘုန်းကြီး အသားထဲမဝင်ဘူး၊ ဒီတော့ ဘုန်းကြီး စဉ်းစားကြည့်တယ်၊ ဩော် ငါ့ခါးပန်းကြိုးအောက်မှာ ခေတ်လုံးဆောင်ထားတာကိုး ခေတ်လုံးကို ဖယ်ရှားလိုက်တယ်၊ နောက်တစ်ကြိမ် ဆရာမဆေးထိုးတော့ ဘုန်းကြီးရဲ့ အသားပွပွထဲကို အပ်ကလွယ်လွယ်ကူကူပဲ ဝင်သွားပါတယ်'

ဆရာတော်က ပြုံးပြီး စကားအဆုံးသတ်လိုက်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၂)

တော်ကူးဆရာတော်ကြီးဖြစ်လာမည့် ဦးထွန်းရီသည် အသက် ၅၅ နှစ်အရွယ်ရောက်သော အခါမှာ ရဟန်းဝတ်သည်ဟုသိရပါသည်။ အရွယ်နှောင်းကာလဖြစ်ပါသည်။ ထိုအချက်ကို သတိမူမိပါ သည်။ သို့သော် ပါရမီ ရင့်သန်လွန်းလှသဖြင့် အများနှင့်မတူဘဲ လွန်စွာထူးခြားစွာ ဖြစ်ပေါ်ဖူးပွင့်လာခဲ့ပေ သည်ဟု သိရပါသည်။

အသက် ၅၅ နှစ်အရွယ်၌ ဆရာတော် ရဟန်းဝတ်သည့်အခါ အာလောက ကသိုဏ်းကို အပြင်းအထန် ရှုမှတ်၏။ တော်ကူးရွာ၏ အရှေ့ဘက်ရှိ တောထဲ၌လည်းကောင်း၊ တောင်ခါးပန်းရှိ ဂဝံကျောက်များနှင့် ဂူတွင်းများ၌လည်းကောင်း ရှုမှတ်ခဲ့၏။ ကသိုဏ်း ဝန်းအဖြစ် အောက်လင်းမီးအိမ် (စတောင်းကင်း မီးအိမ်)၏ ထွန်းလင်းဝင်းပနေသည့် မီးစာကို ရှုမှတ်သည်ဆို၏။ နံနက်ချိန်ခါတွင် ထွန်းသစ်စ နေဝန်းကိုလည်း ရှုမှတ်သည် ဆို၏။

ဆရာတော်တို့ ကသိုဏ်းရှုစဉ်ခါတုန်းက သမာဓိအား ဘယ်လောက် ကောင်းသလဲဆိုရင် ထန်းတစ်ဖျားလောက်မြင့်တဲ့နေဝန်းကို စူးစိုက်ကြည့်လိုက် ရင် နေဝန်းကွယ်ပျောက်သွားရော၊ မြူတိမ်ကင်းစင်တဲ့ လပြည့်ညဥ့်အခါမှာ လပြည့်ဝန်းကို စိုက်ကြည့်လိုက်ရင်လဲ လဝန်းကြီးနဲ့ ကြယ်တာရာတွေ အကုန် ပျောက်ကုန်ရော'

(ပဋိဘာဂနိမိတ်က နေရောင် လရောင် ကြယ်ရောင်တို့ကို ဖုံးလွှမ်းသွားခြင်း ကြောင့် နေ လ ကြယ်တို့ ကွယ်ပျောက်သွားခြင်းဖြစ်၏။)

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၂)

## ကသိုဏ်းတစ်ခုအောင်လျှင် ကျန် ကသိုဏ်းများ အောင်မြင်ခြင်း

တော်ကူးဆရာတော်ကြီးသည် ရဟန်းဝတ်ပြီးနောက် ဘဝကို အသေသတ်ရမည်ဟူသော စိတ်ကူးဖြင့် နည်းကောင်းရှာရာ ရှာသည့်အတိုင်းတွေ့ခဲ့ပေရာ၊ တွေ့သည့်အတိုင်းလည်း လိုက်နာခဲ့သဖြင့် အကျိုးထူးကြီး ဖြစ်ထွန်းခဲ့ကြောင်း နောက်လူများအတွက် သက်သေဖြစ်ထွန်းခဲ့ပါသည်။

ကသိုဏ်းရှုမှတ်တာ တစ်ခုအောင်ရင် ကျန်ကသိုဏ်းတွေလဲ အောင် တော့တာပဲ၊ ဘုန်းကြီးအကုန် လုပ်ခဲ့ဖူးတယ်လေ။

သမထစျာန်အကြောင်းကို ဘုန်းကြီး သိပ်မပြောချင်ဘူး စျာန်ချမ်းသာက



သိပ်ကောင်းတာ၊ ဒကာတို့ကိုပြောပြရင် ဒကာတို့အကုန်လုံး စိတ်ဝင်စားသွားကြလိမ့်မယ်'

သမထအလုပ်က ဝေဒနာကိုမကျော်လွှန်နိုင်ဘူးလေ၊ ဝိပဿနာ အလုပ်ကသာ ဝေဒနာကို ကျော်လွှန်နိုင်တာ၊ ဝေဒနာကို ကျော်လွှန်နိုင်မှ အသေတတ်မယ်၊ အသေတတ်မှ ဘဝကူးကောင်းကြမယ်လေ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၃ )

## အင်္ဂရုတ်ကို စွန့်လွှတ်ခြင်း

တော်ကူးဆရာတော်ကြီးသည် သက်တော် ၇၀ ရောက်သည့်အခါမှာ ဘဝအကွေ့ အပြောင်းသို့ ရောက်၍ ဘဝဟောင်း အလေ့အလာဟောင်းများကို စွန့်ပစ်ပြီးလျှင် ဘဝသစ် အလေ့အလာသစ်များကို စတင်ခဲ့ကြောင်းတွေ့ရှိရပါသည်။

တော်ကူးဆရာတော်သည် ထိုသမထလုပ်ငန်းကို အားထုတ်နေစဉ်အခါက တစ်ခါတစ်ရံတွင် ဆွမ်းခံခြင်းမပြုဘဲ တောထဲ၌ ရက်သတ္တတစ်ပတ်ခန့် ဈာန်ချမ်းသာနှင့် ပျော်မွေ့နေလေ့ရှိ၏။ ဒကာ ဒကာမများက သွားရောက်ရှာဖွေကြသည့်အခါ ချုံနွယ်များအကြား ပုန်းကွယ်နေလိုက်သည်ဟုဆို၏။

သက်တော် (၇၀) ပြည့်မြောက်၍ မော်လမြိုင်မြို့သတိပဋ္ဌာန်ကျောင်းတော်သို့ ဝိပဿနာတရားရှုမှတ်ရန် တော်ကူးဆရာတော် ကြွရောက်လာသည့်အခါ ကမ္မဋ္ဌာနာ စရိယဆရာတော် ဦးပဏ္ဍဝက အောက်ပါ ကတိဝန်ခံချက် ၃ ရပ်ကို တောင်းဆို၏။

၁။ တော်ကူးဘုန်းကြီး ဦးနန္ဒိယသည် ဆေးလိပ်သောက်ခြင်းကို ပယ်စွန့်ရမည်။

၂။ ဖျားနာသူတို့အတွက် ရောဂါကုသပေးခြင်းကို လုံးဝရပ်ဆိုင်းရမည်။

၃။ အင်္ဂရုတ်ထိုးခြင်းအလုပ်ကို လုံးဝပယ်စွန့်ရမည်။

တော်ကူးဆရာတော်သည် ရိုသေကျိုးနွံစွာ ကတိဝန်ခံချက်ပေး၏။

ထိုအခါမှစ၍ ဆေးလိပ်သောက်ခြင်း၊ ဗိန္ဓောအတတ်ဖြင့် ဆေးကုသခြင်း၊ အင်္ဂရုတ်ထိုးခြင်းတို့ကို လုံးဝပယ်စွန့်လိုက်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၃)

## သည်းခံနိုင်လွန်းသော တော်ကူးလောင်းလျာ

တော်ကူးဆရာတော်သည် လူဝတ်ကြောင် ဦးထွန်းရီ ဘဝကတည်းကပင် သဒ္ဓါတရားထက်သန်၍ မေတ္တာဘာဝနာကို အရင်းခံလျက် ပယောဂရောဂါများကိုပင် လိုက်လံကုသပေးခဲ့သူဖြစ်၏။ ဇွဲဝီရိယ အလွန်ကောင်းပြီး မိမိကိုယ်ကို နှိမ့်ချခြင်းဟူသည့် နိဝါတဂုဏ်နှင့်လည်း ပြည့်စုံတော်မူ၏။ သို့အတွက် တော်ကူးဆရာတော်သည် သူမတူအောင် ခန္တီတရားကြီးမားသူဖြစ်သည်ဟု သိရှိရပါသည်။ ထိုအချက်နှင့် စပ်လျဉ်း၍ ဦးထွန်းရီ၏ ဘဝပုံကြမ်းများကို အောက်ပါအတိုင်း ရေးခြယ်စီမှုန်းခဲ့ကြောင်း တွေ့ရှိရပါသည်။

လယ်သမားများက ဦးထွန်းရီသည် လယ်မြေ ၂၆ ဧကကို ပင်ပန်းဆင်းရဲစွာ လုပ်ကိုင်ခဲ့၏။ တောထဲသို့သွား၍ သစ်ဝါးများကိုခုတ်ယူပြီး လှည်းပေါ်သို့တင်ကာ တောင်စောင်း



လမ်းကြမ်းအတိုင်း လှည်းကိုမောင်းနှင်ရ၏။ နွားနှစ်ကောင်တို့က တောင်အောက်သို့ ဒုန်းစိုင်း၍ ပြေးဆင်းလာကြသည့်အခါ သစ်လုံးများက ဦးထွန်းရီ ကိုယ်ပေါ်သို့ ပိကျလာသဖြင့် မချိမဆံ့သော ဒဏ်ရာကို ဦးထွန်းရီ အကြိမ်ပေါင်းများစွာခံခဲ့ရ၏။

တစ်ကြိမ်တွင် ဦးထွန်းရီသည် လှည်းဇင်တုံးပေါ်တွင်ထိုင်လျက် ခြေတွဲ လွဲချကာ တောထဲသို့ဝင်၏။ လှည်းသွားလမ်းတစ်လျှောက်တွင် ခရီးသွားသူအပေါင်းအား အဟန့်အတားပြုနိုင်သော သစ်ကိုင်းသစ်ခက်များကို ခုတ်ထွင်ရှင်းလင်းရန် ကြည့်၍ သွား၏။ လမ်းအလယ်တည့်တည့်၌ ငေါငေါပေါ်နေသော သစ်ငုတ်တို့ကို သူ သတိမပြုမိ၊ နွားနှစ်ကောင်က အားမာန်ကောင်းကောင်းနှင့် လှည်းကိုဆွဲသွားစဉ် ဦးထွန်းရီ၏ တွဲလွဲကျနေသော ခြေတစ်ဖက်သည် ထိုသစ်ငုတ်နှင့် အရှိန်ပြင်းစွာ တိုက်မိကာ ပြတ်လုမတတ် ဟက်တက်ကွဲသွားလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၅ )

## ကြမ်းတမ်းသော ဘဝရုပ်ပုံလွှာများ

တော်ကူးဆရာတော်ကြီး၏ ဦးထွန်းရီ ဘဝရုပ်ပုံလွှာများမှာ လွန်စွာကြမ်းတမ်းလှပေသည်။ တော်ကူးဆရာတော်ကြီးဘဝမှ နောက်ကြောင်းသို့ ပြန်လှည့်ကြည့်လျှင် ယုံနိုင်စရာပင် မရှိနိုင်ပေဟု ထင်ရပါ၏။ ဤသို့ဆင်ခြင်၍ ဖတ်ရှုသင့်ပါသည်။ ဖတ်ကြည့်ပါ။

ဆေးဆရာများနှင့် နှစ်လကြာကုသပါသော်လည်း ခြေထောက်ဒဏ်ရာကြီး မပျောက်သည့်အပြင် မန်းလိုက်ကာ ကြောက်မက်ဖွယ်ရာ ရောင်ရမ်းလာ၏။ ပြင်းထန်သောဝေဒနာကို သည်းညည်းခံလျက် မိမိဘာသာ ခြေထောက်ကို ရေအေး၌စိမ်၍ ရတနာသုံးပါးဂုဏ်တော်ကို အထပ်ထပ် ပွားများခြင်းဖြင့် ရောဂါပျောက်ကင်းစေနိုင်ရ၏။

တစ်ဖ်, အသက် ၄၀ ခန့်အရွယ်တွင် နွားသိုးကြီး ဝှေ့ယမ်းလိုက်သဖြင့် ဦးထွန်းရီ၏လည်ပင်း ထုတ်ချင်းပေါက်သွားပြန်၏။ လည်ပင်းအလယ်တည့်တည့် မဟုတ်ဘဲ အနည်းငယ် ဘေးချော်သွားသည့်အတွက် ဦးထွန်းရီ ပွဲချင်းပြီးမသေခြင်း ဖြစ်၏။ တင်ချာဆေးရည်ကို အနာပေါ်သို့ လောင်းချသည့်အခါ ဦးထွန်းရီသည် တစ်ကိုယ်လုံး တုန်ခါအောင် အလွန်နာကျင်ပူစပ်ရ၏။ သို့သော်လည်း သည်းခံရှာ၏။

ထို့နောက် အနာမန်းလိုက်ပြီး ရောင်ရမ်းလာသဖြင့် ပါးစပ်ဟ၍ မရတော့ဘဲ ထမင်းရည်ကျဲကျဲကို သွားကြားမှစုပ်ယူကာ အာဟာရဖြည့်တင်းခဲ့ရ၏။ လှဲအိပ်၍ မရသဖြင့် ရက် ၂၀ လုံးလုံး ခေါင်းအုံးကိုမှီကာ ငုတ်တုတ်ထိုင်နေခဲ့ရ၏။ ဗိန္ဓောဆရာများက လက်လွှတ်လိုက်ပြီဖြစ်သော်လည်း ဦးထွန်းရီသည် တုန်လှုပ်ချောက်ချားခြင်း မရှိဘဲ ဘုရားကိုသာအာရုံပြုကာ မေတ္တာဘာဝနာကို တွင်တွင်ပွားများခဲ့၏။ ၂၁ ရက်မြောက်သောနေ့၌ မန်းရည်ပေါက်ကျသွားသဖြင့် အနာသက်သာသွားလေ၏။

ထို့နောက် တစ်ဖန် လမှောင်သော ညဥ့်တစ်ညဥ့်၌ ကင်းခြေများကြီး တစ်ကောင်က ဦးထွန်းရီ၏ခြေထောက်ကို ကိုက်လိုက်သဖြင့် အဆိပ်တက်ကာ ယောင်အမ်း ပူလောင်လာတော့၏။ မီးနှင့်မြိုက်နေသကဲ့သို့ အလွန်ပူပြင်းနာကျင်သည့် ဝေဒနာလှိုင်းတို့သည် ကင်းကိုက်သည့်ဒဏ်ရာမှ ဝမ်းဗိုက်ဆီသို့ တလိမ့်လိမ့်တက်လာကြ၏။



နာလွန်းလို့ အသံထွက်ပြီးအော်ငိုရတယ်၊ ခုနစ်အိမ်ကြား ရှစ်အိမ်ကြားပေါ့၊ လူတွေ သတင်းလာမေးကြတယ်၊ ဒါပေမယ့် ဝေဒနာသက်သာအောင် ဘယ်သူမှ လုပ်မပေးနိုင်ကြဘူး၊ နောက် ဘုန်းကြီးအကြံရလို့ ခြေထောက်ဒဏ်ရာကို အောက်လင်း မီးအိမ်နဲ့ကင်တာ တဆိတ်ကလေး သက်သာတယ်၊ မီးကင်တာများသွားလို့ မနက်ကျ တော့ အသားကျက်လုမတတ် ဖူးရောင်အက်ကွဲနေတာကိုတွေ့ရတယ်။

တော်ကူးဆရာတော်သည် ဤသို့လျှင် လူ့ဝတ်ကြောင်ဘဝက သေလုနီးသည့် ဒဏ်ရာကြီးများကို အကြိမ်ကြိမ် ခံစားခဲ့ရသည့်အပြင် ဘုန်းကြီးဝတ်၍ အသက် ၇၀ တွင်းသို့ ချဉ်းကပ်လာသည့်အခါ၌လည်း ဆေးသုဉ်းနဝင်းသုဉ်းပြီ၊ မျှော်လင့်ချက်ကုန်ပြီ' ဟု ဆေးဆရာများ သတ်မှတ်ကြရလောက်အောင် ရောဂါဝေဒနာမျိုးစုံတို့ ဖိစီးလာ ကြပြန်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၆ )

တော်ကူးဆရာတော်ကြီးဘဝ မရောက်မီကာလများနှင့် တော်ကူးဆရာတော်ကြီး တရားထူး တရားမြတ် မရသေးမီကာလများတွင် ငှက်ဖျားများ သွေးတိုးများ စသည်အားဖြင့် မာန်နတ်၏ မိတ်ဆွေများကို တွေ့ကြုံခဲ့ရကြောင်း တွေ့ဆုံခဲ့ရကြောင်း ဆင်ခြင်၍သိရှိနိုင်ပါသည်။ ထိုအချိန်ကို နမူနာ ယူခြင်းသည် ဇွဲလုံ့လထက်သန်မှုကို ဖြစ်စေနိုင်ပါသည်။ ဖတ်ကြည့်ပါ။

တောထဲ၌ နှစ်ရှည်လများ သမထဘာဝနာများပွားခဲ့သည့်အတွက် ငှက်ဖျား ရောဂါရလာ၏။ သွေးတိုးရောဂါနှင့် မူးဝေသောရောဂါတို့ကလည်း နှိပ်စက်လာကြ၏။ တစ်ခါတစ်ရံ လမ်းလျှောက်သွားရင်းတွင်ပင် ဆရာတော် မိုက်ခနဲ သတိမေ့ပြီး လဲကျ သွားတတ်၏။

ဒူးဆစ်အောက် ခြေထောက်နှစ်ဖက်၌လည်း နှင်းခူစိုရောဂါက မြင်မကောင်း အောင် စွဲကပ်နေသဖြင့် အနာရည်တစိုစိုနှင့် ဖူးရောင်နေကြ၏။ ခြေဖမိုးနှစ်ဖက် ဖားပြုပ်ကြီးများနှင့် တူနေကြတော့၏။ နူရာဝဲစွဲ ဆိုသလို ထိုနှင်းခူများအကြားတွင် အသားပိုလုံးများက သဖန်းသီးသဖွယ် ပြွတ်သီးနေကြပြန်၏။

ထိုထက်ပိုဆိုးသည်ကား လက်ဝဲဘက်ပေါင်တွင်းကြော တုပ်ဆွဲသည့် ရောဂါ ဖြစ်၏။ ဆရာတော်သည် အသက်ပင်ကြီးလင့်ကစား၊ ရောဂါများ ဝိုင်းဝိုင်းလည်ကာ ညှဉ်းပန်းနေလင့်ကစား ဝီနည်းတော်နှင့်အညီ နံနက်တိုင်း တော်ကူး တံခွန်တိုင်ရွာများ ထဲသို့ ဆွမ်းခံကြွတော်မူ၏။

ကျောင်းမှထွက်၍ တစ်မိုင်ခန့် လမ်းလျှောက်မိသောအခါ လက်ဝဲ ပေါင်တွင်း ကြောက တုပ်ဆွဲလာသဖြင့် ခြေလှမ်း၍ မရတော့ချေ။ ထိုအခါ ခြေတစ်လှမ်း လှမ်းနိုင် ရေးအတွက် မျက်ရည်ဝဲ့လည်လာသည်အထိ အားစိုက်ကာ ရုန်းကန်ရတော့၏။

ရိုးတွင်းခြင်ဆီအထိ စူးရှနာကျင်သည့် ဝေဒနာကို သည်းညည်းခံကာ ပါးပြင် နှစ်ဖက်ပေါ်တွင် မျက်ရည်ပေါက်ပေါက်ယိုစီးလျက် မိနစ်ပေါင်းများစွာ ရုန်းကန်ကာ ကျောင်းတော်သို့အရောက် ပြန်ကြွလာလေသည်။

ဤပြင်းထန်သောဝေဒနာကို တစ်နေ့တည်းခံစားရသည့်မဟုတ်၊ နေ့စဉ် ရက်ဆက် ဆွမ်းခံကြွသဖြင့် နေ့များစွာပင် ဆက်တိုက်ခံစားနေရပေ၏။

ဤသို့ အလူးအလဲ ဝေဒနာခံစားနေရပါသော်လည်း ဆရာတော်သည် ဒကာ



များအား ထုတ်ဖော်ပြောကြားခြင်း မပြုချေ။ အတိတ်ဘဝပေါင်းများစွာက ပြုခဲ့မိသော အပရာပရိယ ဝေဒနီယကံ ဝဋ်ကြွေးတို့ကို ဘဝခန္ဓာကိုယ်ဖြင့် ပေးဆပ်သောနေရ ခြင်းဖြစ်သည်ဟု နှလုံးသွင်းလျက် ဝေဒနာကို သည်းခံတော်မူရှာ၏။

ဤသို့ နာကျင်ခံခက်သည့် ဝေဒနာအမျိုးမျိုးကို ခံစားရခြင်းသည် တော်ကူး ဆရာတော်၏ ခန္တီစွမ်းရည်ကို ပို၍ပို၍ ရင့်ကျက်လာစေ၏။ နောက်ဆုံး၌ ကိလေသာ မာန်စွယ်အမျိုးမျိုးနှင့် ရင်ဆိုင်တိုက်ခိုက်ရသော ဝိပဿနာစစ်တလင်းဝယ် ဣရိယာ ပုတ်ရှည်ရှည် ရှုမှတ်သဖြင့် အဆင့်ဆင့် ပေါ်ပေါက်လာသည့် ဝေဒနာဆိုးများကို သဒ္ဓါ, ဝီရိယ, ခန္တီလက်နက် တို့ဖြင့်ပင် အပြီးအပိုင် အောင်နိုင်တော်မူခဲ့လေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁၇ )

## နိဗ္ဗာန်လမ်းမကြီးပေါ်သို့ ရောက်ပြီ

တော်ကူးဆရာတော်သည် အိမ်ရာထူထောင်သည့် လူ့ဝတ်ကြောင်ကတည်းကပင် သမထ ဘာဝနာ အလုပ်ကို ကြိုးကုတ်အားထုတ်ခဲ့သည်။ အသက် ၅၅ နှစ် အရွယ်တွင် ရဟန်းဘောင်သို့ အပြီးအပိုင် ကူးပြောင်းလာသည့်အခါ၌လည်း ထိုသမထ ဘာဝနာအလုပ်နှင့်ပင် ၁၅ နှစ် ထပ်မံ ကျင်လည်ခဲ့ရပြန် သည်ဟုသိရှိရပါသည်။

ၿငင်းနောက် သေမင်းခံတွင်းမှလွတ်၍ သေမင်းမမြင်နိုင်သော နိဗ္ဗာန်တံခါးဝသို့ ရောက်ရှိသွား ပုံကို ကြည်ညိုဖွယ်ရာလေ့လာ တွေ့ရှိရပါသည်။

> အသက် ၇၀ အရွယ် ရောဂါမျိုးစုံ နှိပ်စက်သဖြင့် မရဏသေမင်း၏ ခံတွင်းဝသို့ ရောက်ရှိသည့်အခါ ဆေးဆရာများကဆေးသုဉ်းနဝင်းသုဉ်းပြီဟု မှတ်ချက် ချကာ လက်မြှောက်သွားကြသည့်အခါတွင် မော်လမြိုင်သတိပဋ္ဌာန်ကျောင်း ဆရာ တော်ဦးပဏ္ဍိတ ဝိပဿနာတရားအားထုတ်ခဲ့ဖူးသော တော်ကူးဆရာတော်၏ တူမ တော်စပ်သူ သီလရှင်ဒေါ်ပညာသီက တော်ကူးဆရာတော်ထံမှောက်သို့ ရောက်လာ၏။
>
> တရားတော်၏ ထူးခြားသော 'ဩပနေယျိဂုဏ်တော်'အရ တရားတော်၏ အမြိုက်အရသာကို ခံစားနိုင်ရန် တော်ကူးဆရာတော်ကို လာရောက်ဖိတ်ကြားခြင်း ဖြစ်၏။
>
> 'ဆရာတော်ဘုရား ဝိပဿနာတရားတော်ဟာ သာသနာတော်ရဲ့အနှစ်သာရ ဖြစ်ပါတယ်၊ ကိလေသာ ရန်စွယ်အပေါင်းကို နှိမ်နင်းပြီး နိဗ္ဗာန်လမ်းကို ကြွမြန်းရန် တစ်ကြောင်းတည်းသောလမ်းလဲဖြစ်ပါတယ်။ သာသနာတော်အတွင်း လူဖြစ်ကျိုးနပ် အောင် မော်လမြိုင်မြို့ဝ သတိပဋ္ဌာန်ကျောင်းသို့ကြွပြီး ဝိပဿနာတရားအားထုတ် တော်မူပါဘုရား'
>
> 'ကောင်းပြီ သွားတာပေါ့၊ ငါသေစရာရှိလျှင် တရားခွင်မှာ သေတာပေါ့'
>
> ရောဂါအနည်းငယ် သက်သာလာသည့်အခိုက်နှင့် ကြုံကြိုက်သဖြင့် တော်ကူး ဆရာတော်သည် မဆုတ်ဆိုင်းတော့ဘဲ မော်လမြိုင်မြို့ဝ သတိပဋ္ဌာန်ကျောင်းတိုက်သို့ ကြွသွားတော်မူ၏။ ကမ္မဋ္ဌာနာစရိယ ဆရာတော် ဦးပဏ္ဍိတ ဆေးလိပ်သောက်ခြင်း ရောဂါကုခြင်း အဂ္ဂိရတ်ထိုးခြင်းတို့ကို ပယ်စွန့်မည်ဟု ကတိဝန်ခံချက်ပြုပြီးလျှင် ဝိပဿနာတရားတော်ကို စတင်ကာ ရှုမှတ်လေတော့၏။



ဖူးငုံလျက်ရှိသော ပဒုမ္မာကြာပန်းသည် နေရောင်ခြည်ဖြာသန်းလာသည်နှင့် တစ်ပြိုင်နက် ဖူးပွင့်ဝေဆာလာသကဲ့သို့ သမထဘာဝနာဖြင့် ဈာန်သမာဓိ ရရှိပြီးသော တော်ကူးဆရာတော်သည် ဝိပဿနာ နယ်ဘက်သို့ ကူးသန်းလိုက်သည်နှင့် တစ်ပြိုင်နက် ရုပ်နာမ်သဘာဝကို တစ်စတစ်စ ထိုးထွင်း သိမြင်လာပြီး ဝိပဿနာဉာဏ်များကို တစ်ဆင့်ပြီးတစ်ဆင့် မျက်မှောက်ပြုလာနိုင်တော့၏။

ဝိပဿနာဉာဏ် မြင့်မြင့်တက်လာလေလေ တရားရှုမှတ်ရန် ဆန္ဒပြင်းပြလာလေလေ ဖြစ်သည့်အတွက် တော်ကူးဆရာတော်သည် မရပ်မနား ကြိုးစားအားထုတ်လေတော့၏။

အခြားယောဂီများက ထိုင်၍ တရားရှုမှတ်နေစဉ် တော်ကူးဆရာတော်သည် မတ်တတ်ရပ်၍ တရားရှုမှတ်၏။

တစ်နာရီပြည့်၍ အခြားယောဂီများ စင်္ကြံလျှောက်ကြသည့်အခါ တော်ကူးဆရာတော်သည် မတ်တတ်ရပ်လျက်ပင် တရားဆက်ရှုမှတ်နေ၏။

ပူအိုက်သောရာသီဖြစ်၍ အခြားယောဂီများက ယပ်ခတ်ခြင်း၊ ရေချိုးခြင်း တို့ပြုလုပ်ကြသော်လည်း တော်ကူးဆရာတော်မှာ လှုပ်ရှားခြင်းမရှိ။ ငြိမ်ငြိမ်သက်သက်ပင် မတ်တတ်ရပ်ကာ တရားရှုမှတ်နေ၏။ တစ်ရက်တစ်ကြိမ် ရေချိုးရန်ကိုပင် တရားရှုမှတ်ချိန် ယုတ်လျော့သွားမည်စိုး၍ နှစ်ရက်ကြာမှတစ်ခါ ရေချိုးတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၀ )

တော်ကူးဆရာတော်ကြီးသည် နာမကျန်းဖြစ်နေသည့်ကြားကပင် ထိုဝေဒနာများကို ကျော်လွှား၍ အောင်မြင်အောင် ကျင့်ကြံနိုင်ခဲ့သည်မှာ ဇွဲ၏ အကျိုးကျေးဇူးများပင်ဖြစ်ပေသည်။

တော်ကူးဆရာတော်သည် နာမကျန်းဖြစ်နေသည်ကတစ်ကြောင်း၊ ပေါင်ကြောဆွဲရောဂါကြောင့်တစ်ကြောင်း ဆွမ်းခံမကြွနိုင်ပါ။ လမ်းလည်း ကောင်းကောင်း မလျှောက်နိုင်ပါ။ သို့အတွက် တရားကိုသာ ဇွဲ၍ရှုမှတ်တော်မူ၏။

တစ်နာရီကြာသော ဣရိယာပုတ်တို့ဖြင့် ရှုမှတ်ရသည်ကိုလည်း အားမရဘဲ ဣရိယာပုတ် တစ်မျိုးတည်းကို ၂ နာရီ၊ ၃ နာရီ၊ ၄ နာရီ စသည်ဖြင့် တိုးမြှင့်ကာ ရှုမှတ်လေ၏။

တော်ကူးဆရာတော်ကြီးသည် ဇွဲ၏ကျေးဇူး၊ ဝီရိယ၏ကျေးဇူးတို့ကို အောက်ပါအတိုင်း သက်သေပြခဲ့ပါသည်။

ထိုသို့ ကြာကြာရှုမှတ်သည့်အခါ ပေါင်ကြောဆွဲ ရောဂါဝေဒနာသည် အလွန်ပေါ်လွင်ထင်ရှားလာ၏။ ထိုဝေဒနာကိုစူးစိုက်၍ ရှုမှတ်ဖန်များလာသည့်အခါ ဝေဒနာသည် မှုန်မှုန်မွှားမွှားကြေမွလျက် တစ်စစီတစ်စစီ ဖြစ်ပျက်နေသည်ကို မြင်တွေ့လာရ၏။

ဝေဒနာကွယ်ပျောက်သည်အထိ ရှုမှတ်နိုင်သောအခါ ရောဂါလည်းသက်သာလာသည်ကို ဆရာတော်အံ့သြစွာ တွေ့မြင်လာ၏။

တော်ကူးဆရာတော်ကြီးသည် ဝေဒနာအောင်နိုင်ပုံကို အောက်ပါအတိုင်း တွေ့ရှိရပါသည်။

ဤသို့ ရောဂါဝေဒနာများ တစ်မျိုးပြီးတစ်မျိုး ထင်ပေါ်လာသည်ကို ကြေ



ပျောက်သွားကြသည်အထိ ရှုမှတ်သွားသောအခါ ရောဂါများ တဖြည်းဖြည်း သက်သာသွားကြ၏။ သုံးလပြည့်သည့်အခါ ပေါင်ကြောဆွဲရောဂါ မူးဝေသည့်ရောဂါနှင့် မုတ္တရောဂါတို့သည် လုံးဝပျောက်ကင်းသွားကြ၏။ သို့အတွက် ဆရာတော်သည် ကောင်းစွာလမ်းလျှောက်လာနိုင်၏။ ဆွမ်းခံကြွနိုင်လာ၏။

ဝေဒနာပေါ်ပေါက်လာသမျှကို ကျော်လွှန်နိုင်အောင်သည်းညည်းခံ၍ ရှုမှတ်နိုင်လာသောအခါ ဆရာတော်သည် စိတ်ကြိုက်ရှုမှတ်လေတော့၏။

အရုဏ်ဆွမ်းဘုဉ်းပေးပြီးအချိန် (နံနက် ၅ နာရီ)မှစ၍ နေ့ဆွမ်း အုန်းမောင်းတီးချိန် နံနက် ၁၀ နာရီအထိ တစ်စပ်၊ နေ့ဆွမ်းဘုန်းပေးပြီးသည်မှ ညဥ့် ၆ နာရီ ဘုရားဝတ်တက်ချိန်အထိ တစ်စပ်၊ ဘုရားဝတ်တက်ပြီးသည်မှ ညဥ့်သန်းခေါင်သို့မဟုတ် တစ်ခါတစ်ရံ နံနက်အရုဏ်ဆွမ်း အုန်းမောင်းတီးသည်အထိ တစ်စပ်တည်း ရှုမှတ်လေ၏။

မြို့ဝသတိဋ္ဌာန်ကျောင်းတွင် သံဃာများ သီတင်းသုံးရန် နှစ်ထပ်တိုက် ကျောင်းတစ်ဆောင်ရှိ၏။ ထိုတိုက်ကျောင်း၏ အထပ်နှစ်ခုစလုံးတွင် ဘေးနှစ်ဖက်၌ ရဟန်းတစ်ပါးစီ သီတင်းသုံးရန် အခန်းငယ်များ ဖွဲ့ထားပြီး အလယ်တွင် စင်္ကြံသွားရန် ချန်လှပ်ထား၏။ တော်ကူးဆရာတော် ဦးနန္ဒိယသည် ထိုတိုက်ကျောင်း၏အောက်ထပ် အခန်းတစ်ခန်းတွင် သီတင်းသုံးခွင့်ရ၏။ ထိုအခါ လျှပ်စစ်ဓာတ်မီး မသွယ်ရသေးသဖြင့် ထိုတိုက်ကျောင်းသည် ညဥ့်အခါ မှောင်မိုက်လျက်ရှိ၏ဟု သိရပါသည်။ ဤတွင် တော်ကူးဆရာတော်ဘုရားကြီးသည် မလျှော့သောဇွဲဖြင့် တရားအားထုတ်ပုံတို့မှာ မယုံနိုင်စရာ ဖြစ်ပါတော့သည်။ ဖတ်ကြည့်ပါ။

ညဥ့် ၇ နာရီ ထိုးသည်မှစ၍ ဦးနန္ဒိယသည် အနှောင့်အယှက် ကင်းဝေးရန် မိမိအခန်းတွင်း အမှောင်ထဲ၌ မတ်တတ်ရပ်လျက် တရားရှုမှတ်တော်မူ၏။

ထိုအခါ အခွင့်အခါကောင်းကို စောင့်ဆိုင်းနေကြသော ခြင်ကောင်များသည် ဦးနန္ဒိယအား သဲသဲမဲမဲ ကိုက်ခဲကြလေတော့၏။

ဤအခြေအနေ၌ သာမာန် ယောဂီတစ်ယောက်အဖို့ သမာဓိ ထူထောင်ရန် မလွယ်ကူပါချေ။ ဦးနန္ဒိယကား မိမိသွေးကို ဆာလောင် မွတ်သိပ်နေကြသည့် ခြင်ကောင်များအား ရက်ရက် ရောရော ပေးလှူ၍ ခြင်ကိုက်ခြင်းကို လျစ်လျူရှုပြီးလျှင် ဝိပဿနာအမှတ်၌သာ အာရုံစူးစိုက်ထားလေ၏။

တော်ကူးဆရာတော်ကြီး တရားအားထုတ်နေစဉ်အခါက ကိုယ်တွေ့ မျက်မြင်တွေ့ရသူ တစ်ဦး၏ ပြန်ပြောပုံများမှာ လွန်စွာအားကျ ကြည်ညိုဖွယ်ရာ ကောင်းလှပေသည်။

တော်ကူးဆရာတော်ကြီးဆရာတော် ဦးပဏ္ဍာ၏ မြေးဖြစ်သူအရှင် ပညာသီရိသည် လက်နှိပ်ဓာတ်မီးတစ်လက်ဖြင့် ဦးနန္ဒိယထံသို့ မကြာမကြာ လျှောက်လာတတ်၏။

အမှောင်ထုထဲ၌ ခြင်အော်သံ တစီစီဆူညံနေသော်လည်း မလှုပ်မရှားတရားရှုမှတ်နေသော ဦးနန္ဒိယ၏ကိုယ်ပေါ်သို့ လက်နှိပ်ဓာတ်မီးထိုးကြည့်၏။

အရှင်ပညာသီရိ မြင်တွေ့လိုက်သော ရှုကွင်းကား ကြောက်ခမန်းလိလိ ကျောချမ်းဖွယ်ကောင်းလေစွ။

သင်္ကန်းလှပ်ထားသော ဦးနန္ဒိယ၏ ပခုံးပြင်နှင့် လက်ပြင်များပေါ်တွင် ခြင်ရာပေါင်းများစွာတို့သည် ပြွတ်ခဲကာ အားရပါးရ သွေးစုပ်နေကြ၏။ ဦးနန္ဒိယ၏



အသားများပေါ်၌ ဆင်းသက်၍ တစ်ဖန်သွေးစုပ်ကြပြန်၏။

ဦးနန္ဒိယက ခံစားမှု ကင်းမဲ့လေဟန်ဖြင့် တုတ်တုတ်မျှမလှုပ်၊ အရှင်ပညာသီရိသည် မရှုရက်သဖြင့် မိမိ၏လက်ဖဝါးဖြင့် ဦးနန္ဒိယ၏ ပခုံးထက်မှ လက်ပြင်တစ်လျှောက် သပ်ချလိုက်၏။

ထိုအခါ ခြင်ကောင်တို့သည် ဝေါခနဲ ထပျံကြပြီးလျှင် လက်ပြင်တစ်လျှောက်၌ သွေးများယိုစီးကျလာ၏။ မကြာမီပင် ခြင်ကောင်များသည် ဦးနန္ဒိယ၏ အသားများပေါ်၌ ဆင်းသက်၍ တစ်ဖန် သွေးစုပ်ကြပြန်၏။

ဤမျှ ဤမျှ ကြောက်မက်ဖွယ်ကောင်းသည့် ဝေဒနာကို တော်ကူးဆရာတော် ဦးနန္ဒိယသည် တစ်ချက်မျှမလှုပ်ရှားဘဲ ညဉ့်လုံးပေါက် သည်းခံနိုင်စွမ်းရှိသည်မှာ အလွန်တရာအံ့ဩဖွယ် ကောင်းလေစွတကား။

တော်ကူးဆရာတော်ကြီး၏ ကိုယ်ရောင်ကိုယ်ဝါများနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း အံ့ဩကြည်ညိုရပါသည်။

**ဆရာတော်၏ သမာဓိရှိန်အဟုန်ကြောင့် ခန္ဓာကိုယ်မှ ထွက်လာသော ကိုယ်ရောင်ကိုယ်ဝါတို့သည် အခန်းအမှောင်ကို လင်းစေပါသည်ဟု စကားစပ်မိ၍ ဦးနန္ဒိယက မိန့်ဆိုဖူး၏။**

တော်ကူးဆရာတော်ကြီး၏ တရားထူးတရားမြတ်ရပုံကို တရားစစ်ဆေးရန်လာသော ဆရာတော်ကိုယ်တိုင်က အောက်ပါအတိုင်း မှတ်ချက်ပြုပါသည်။

သို့ဖြစ်၍ ဦးနန္ဒိယ၏ တရားတွေ့ရှိပုံကို အစဉ်တစိုက် စစ်ဆေးလာသော ဆရာတော် ဦးပဏ္ဍဝသည် ၃ လစေ့ မြောက်သည့်အခါ၌ 'ဦးနန္ဒိယတော့ စိုင်ကော်သွားပြီ၊ တရားရှုမှတ်တာ တစ်ထောက်သွားနားပြီး ဒီရိပ်သာမှာ တရားကူပြပေးပါ' ဟု မိန့်ကြားတော်မူ၏။

'ဦးနန္ဒိယတစ်ယောက် စိုင်ကော်သွားပြီ' ဟူသော စကား၏အဓိပ္ပာယ်ကား မည်သို့နည်း။ ဦးနန္ဒိယတစ်ယောက် ထွန်းထွန်းပေါက်ပေါက်ဖြစ်သွားပြီး တရားထူးမြင်သိသွားပြီ'ဟု ဆိုလိုခြင်းဖြစ်လေသလော။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၀-၁၂၂ )

တော်ကူးဆရာတော်ကြီးသည် ၎င်းနောက် တရားပြဆရာတော်အဖြစ်တို့ ရောက်ရှိခဲ့လေသည်။

## တရားထူးမြင် သိလျှင်ပြောလှည့်ပါ

ဦးနန္ဒိယသည် မော်လမြိုင်မြို့ဝ သတိပဋ္ဌာန်ကျောင်းတွင် ၂ နှစ်ကျော် သီတင်းသုံးပြီး လက်ထောက် ကမ္မဋ္ဌာနာစရိယ ဆရာတော်အဖြစ် တရားကူပြပေး၏။ အထူးသဖြင့် မွန်ယောဂီများကို မွန်ဘာသာဖြင့် တရားဟောပြောရှင်းပြပေးနိုင်သည့်အတွက် ဦးနန္ဒိယ၏ကဏ္ဍသည် အရေးပါလျက်ရှိ၏။

တော်ကူးဆရာတော်ကြီးနှင့် စပ်လျဉ်း၍ မဟာစည်ဆရာတော် ကိုယ်တိုင်က သာဓု အကြိမ်ကြိမ်ခေါ်တော်မူကြောင်းသိရှိရပါသည်။

မော်လမြိုင်မြို့ဝ သတိပဋ္ဌာန်ဆရာတော် ဦးပဏ္ဍဝနှင့် ရန်ကုန်သာသနာ့ရိပ်သာ မဟာစည် ဆရာတော်တို့သည် အလွန်ရင်းနှီးသည့် ဓမ္မမိတ်ဆွေများဖြစ်ကြသဖြင့်



မော်လမြိုင်မြို့ဝ သတိပဋ္ဌာန်ကျောင်းတိုက်သို့ မဟာစည်ဆရာတော် နှစ်စဉ်ကြွရောက်ပြီး တရားဟောတော်မူ၏။ ထိုသို့ ကြွလာသည့်အခိုက်၌ ဦးနန္ဒိယ၏ တရားအားထုတ်ပုံနှင့် တရားမြင်တွေ့ပုံကို ဆရာတော်ဦးပဏ္ဍဝမှတစ်ဆင့် မဟာစည် ဆရာတော်ကြား သိရသည့်အခါ သာဓုခေါ်တော်မူ၏။

ဎင်းနောက် တော်ကူးဆရာတော်ကြီးသည် တော်ကူးရွာသို့ ရောက်ရှိသွားခဲ့လေသည်။

၁၉၆၅ ထို့နောက် ဆရာတော် ဦးပဏ္ဍဝ၏ တာဝန်ပေးချက်အရ ဦးနန္ဒိယသည် သံဖြူဇရပ်မြို့၌ ခြောက်လခန့်လည်းကောင်း၊ ကော့ကရိတ်မြို့၌ ၁ နှစ်ခွဲခန့်လည်းကောင်း၊ သတိပဋ္ဌာန်တရားကို ဖြန့်ချိတော်မူ၏။ ကောဇာသက္ကရာဇ် ၁၃၂၆ ခုနှစ်၌မူ ဇာတိချက်ကြွေရာ တော်ကူးကျေးရွာမှ ဒကာများက တော်ကူးသတိပဋ္ဌာန်ကျောင်းကို ဆောက်လုပ်လှူဒါန်းကြသဖြင့် ဆရာတော်ဦးပဏ္ဍဝ၏ ခွင့်ပြုချက်အရ တော်ကူးရွာသို့ ကြွချီတော်မူသည်။

တော်ကူးဆရာတော်ကြီး၏တရားကြောင့် ဆွေမျိုး ညာတကာမှစ၍ တရားအားထုတ်သူတို့ ရောဂါဝေဒနာများ ထူးခြားစွာပျောက်ကင်းပုံကို လေ့လာတွေ့ရှိရပါသည်။ ဝိပဿနာတရားအကျိုးကို သာမန်လူတို့ပင် အလွယ်တကူ ထိတွေ့ခံစား ကျင့်ကြံအားထုတ်နိုင်လေသည်ဟု ထပ်ဆင့်သိရပါသည်။

> တော်ကူးရိပ်သာ၌ ညီ ညီမ တူ တူမ မြေးမြစ်များကို အစထား၍ ဝိပဿနာတရားကို ဟောကြားပြသရာ တရားအားထုတ်သူ တဖြည်းဖြည်းများလာ၏။ အထူးသဖြင့် ဣရိယာပုတ်ရှည်ရှည်ဖြင့် တရားအားထုတ်နိုင်ရန် မေတ္တာကရုဏာ ရှေ့ထားကာ ညွှန်ကြားပြသပေးသည့်အတွက် ရောဂါဝေဒနာရှင် များစွာတို့သည် ထူးထူးခြားခြား ရောဂါပျောက်ကင်းသွားကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၃ )

တော်ကူးဆရာတော်ကြီး၏ တော်ကူး ဝိပဿနာတန်ခိုးကြောင့် တော်ကူးတရားရိပ်သာကို တော်ကူးသတိပဋ္ဌာန်ဆေးရုံတော်ဟူ၍ပင် အများက ရပ်ထဲရွာထဲတွင် သာဓုခေါ်၍ တင်စားကြရပါသည်။

> **ဆေးရုံများ၌ ဆေးကုသ၍ မပျောက်ကင်းကြသော ရောဂါရှင်အချို့သည်ပင် တော်ကူးရိပ်သာ၌ ဝိပဿနာတရား ရှုမှတ်မှုဖြင့် ရောဂါပျောက်ကင်းသွားကြ၏။ သို့အတွက် တော်ကူးသတိပဋ္ဌာန်ရိပ်သာကို 'တော်ကူးသတိပဋ္ဌာန်ဆေးရုံတော်' ဟူ၍ ရွာသားများက တင်စားခေါ်ဆိုကြတော့၏။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၃)

တော်ကူးဆရာတော်ကြီး၏ တရားထိုင်ပုံထိုင်နည်းမှာ ရှည်လျားသော ဣရိယာပုတ်များနှင့် တကွ ထူးခြားဖြစ်စဉ်များကို ဆက်တိုက်လေ့လာတွေ့ရှိရပါသည်။

> တော်ကူးဆရာတော်ကိုယ်တိုင်သည်လည်း ထိုင်သည့် ဣရိယာပုတ်ဖြင့် ၂၄ နာရီ၊ ရပ်သည့် ဣရိယာပုတ်ဖြင့် ၂၄ နာရီ၊ လျောင်းသည့် ဣရိယာပုတ်ဖြင့် ၂၄ နာရီ စင်္ကြံလျှောက်သည့် ဣရိယာပုတ်ဖြင့် အလိုရှိသလောက် စံချိန်တင်ကာ ရှုမှတ်ပြသွားသဖြင့် တပည့်များကလည်း ကြိုးစားအားထုတ်ကြ၏။ ထိုသို့ ရှည်လျားသော ဣရိယာပုတ်များဖြင့် တရားရှုမှတ်သောအခါ တော်ကူးဆရာတော်၌ စွဲကျန်ရစ်သည့် နှင်းခူကြီး ရောဂါသည်လည်း ပျောက်ကင်းသွား၏။ သဖန်းသီးများပမာ စုတွဲနေကြသည့် အသားပိုလုံးများလည်း တစ်လုံးပြီးတစ်လုံး ကြွေကျကာ ပျောက်ကင်းသွားကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၃ )



## တရားထူးရခြင်း

တော်ကူးဆရာတော်ကြီး တရားထူးရပုံနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းဖတ်ရှုရပါသည်။

နောက်ထူးခြားသည့် အကြောင်းတစ်ရပ်မှာ မော်လမြိုင်မြို့ဝ သတိပဋ္ဌာန်ကျောင်းမှ ဦးနန္ဒိယ ခွဲခွာသွားသည့်အချိန်၌ ဆရာဖြစ်သူ ဦးပဏ္ဍဝက ဦးနန္ဒိယရေ နောက်ထပ် တရားထူးတွေ့ရင် တို့ကိုအကြောင်းကြားအသိပေးပါနော်ဟု မှာကြားလိုက်၏။

ထိုသည်နေ့မှ ၁၅ နှစ် ကြာသည့်အခါ တော်ကူးဆရာတော် ဦးနန္ဒိယသည် လှူဖွယ်ဝတ္ထုပစ္စည်းများဖြင့် မော်လမြိုင်မြို့ဝ သတိပဋ္ဌာန်ကျောင်းသို့ ကြွသွားပြီး ဆရာသမားအား ပူဇော်ကန်တော့လေ၏။

ဆရာတော် ဦးပဏ္ဍဝက တော်ကူးဆရာတော် ဘာအကြောင်းထူးလို့လဲဟု မေးတော်မူ၏။

ဦးနန္ဒိယက 'ဆရာတော် မိန့်မှာထားခဲ့သည့်အတိုင်း လာရောက်ခြင်းပါဘုရား' ဟု လျှောက်ထား၏။ လျှောက်ထားပြီးနောက် ဆရာတော်နှင့်တပည့် ပြုံးရွှင်စွာ ကြည့်ကြ၏။ ဆရာကလည်းထပ်မမေး။ ဆရာထပ်မမေးသည့်အတွက် တပည့်ကလည်း ထပ်မဖြေ။ ဆရာတော်ကိုဝတ်ပြုပြီးနောက် ဦးနန္ဒိယ ပြန်ကြွသွား၏။

ထို့နောက်၌ ဆရာတော် ဦးပဏ္ဍဝသည် မိမိကျောင်းတိုက်အတွင်းရှိ သံဃာတော်များအား **ဦးနန္ဒိယ တရားထူးရသွားပြီဟေ့ဟု ဝမ်းမြောက်ဝမ်းသာ မိန့်ကြားတော်မူ၏။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၃ )

ထိုသို့ မိန့်ကြားသည်ကို ဦးနန္ဒိယနှင့် တရားအားထုတ်ဖော်ဖြစ်သည့် ဦးစာရိတ္တလည်း ကြားသိခဲ့ရ၏။ ဦးစာရိတ္တ ပြောပြသည့်အတွက် ဤအကြောင်းကို ကျွန်တော် သိရှိရခြင်းဖြစ်ပါသည်ဟု ကျမ်းပြုဆရာက ဝန်ခံထားပါသည်။ သို့သော် တော်ကူးဆရာတော်သည် မိမိတရားထူးရသည်နှင့် ပတ်သက်၍ အထူးလျှို့ဝှက်ထား၏။ ဒကာ ဒကာမများအား ထုတ်ဖော်ပြောကြားခြင်း မပြုချေဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၃)

တော်ကူးဆရာတော်ကြီး တရားထူးရပုံနှင့်စပ်လျဉ်း၍ အသိထူးအမြင်ထူးရရှိ စေနိုင်အောင် စကားထူးများကို အောက်ပါအတိုင်း သင်ခန်းစာရရှိပါသည်။

ဆရာတော်သည် ဝိပဿနာအမှတ်နှင့် အမြဲနေထိုင်သူဖြစ်သဖြင့် အရိယာနွယ်သို့ ဝင်ရောက်ခဲ့ပြီလားဟု ကျွန်တော် ရည်ရွယ်ပြီး မေးမြန်းခြင်းဖြစ်၏။

'ဒကာ မဂ်ဖိုလ်ဆိုက်တာ မဆိုက်တာ ကိုယ့်အလုပ်မဟုတ်ဘူး၊ ကိုယ့်အလုပ်က ဝိပဿနာတရားကို အမြဲရှုမှတ်နေဖို့ပဲ' ဆရာတော်၏ အဖြေမှာ ရိုးစင်းလှ၏။

မည်သည့် မျှော်မှန်းချက်ကိုမျှမထားဘဲ သူတော်ကောင်းအလုပ်ကို ကျိုးကျိုးနွံနွံ လုပ်ကိုင်ရန် ဩဝါဒပေးလိုက်ခြင်းပင်ဖြစ်ပေ၏။

အရိယာပုဂ္ဂိုလ်များဟာ ဝိပဿနာရှုမှတ်မှုနဲ့ မွေ့လျော်နေကြတယ်၊ ဝိပဿနာရှုမှတ်ခြင်းဆိုတာ အရိယာတို့ရဲ့ စားကျက်ပဲ၊ ဒီစားကျက်မှာနေတဲ့သူဟာ ဘေးရန်အန္တရာယ်အပေါင်း ကင်းဝေးတယ်၊ လုံခြုံတယ်၊ သေရင်လဲ အပါယ်မလားဘူး။

ယခု အရိယာ မဖြစ်သေးရင်လဲ သေတဲ့အခါ တစ်မဂ်တစ်ဖိုလ် လောက်တော့ အလွယ်ကလေး ရနိုင်တာပေါ့'ဟု ထပ်ဆင့်၍မိန့်တော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၄ )



တော်ကူးဆရာတော်ကြီး အကြားအမြင်ရသလောဟူသော မေးခွန်းကို ဖြေစရာမလိုတော့ပါ။ ဖြစ်ရပ်မှန်များဖြင့် အံ့သြကြည်ညိုနိုင်ပါသည်။

**အကြားအမြင်ရ၍လော**

သီလ, သမာဓိ, ပညာနှင့် ပြည့်စုံတော်မူကြသော ဆရာတော်ကြီးများသည် အကြားအမြင်ရကြသည်ကို မကြာခဏကြားသိရပါသည်။

၁၉၈၄ အေဒီ ၁၉၈၄ ခု၊ (ကောဇာသက္ကရာဇ် ၁၃၄၆ ခုနှစ်) သက်တော် ၉၃ နှစ်တွင် ပျံလွန်တော်မူသော ရွှေဥဒေါင်းတောင် ဆရာတော်ကြီးသည် မိမိထံသို့ ပရိသတ် မည်မျှအဖူးအမြော် ရောက်လာမည်ကို ကြိုတင်သိရှိတော်မူသဖြင့် ထမင်း ဟင်းချက် ပြုတ်ထားစေလေ့ရှိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၄ )

တော်ကူးဆရာတော်ကြီးသည် အလိုလိုသိ အလိုလိုမြင်နေကြောင်း၊ သို့သော်လည်း ပြောသင့်မှ ပြောကြောင်း လေ့လာတွေ့ရှိရပါသည်။ ဖြစ်ရပ်မှန်မှာ ဤသို့ဖြစ်ပါသည်။

**တော်ကူးဆရာတော်သည် မမြင်သလို မကြားသလို ရိုးရိုးအေးအေး သီတင်းသုံးနေတတ်ပါသော်လည်း အကြားအမြင်ရသည့် အထောက်အထားများကို တွေ့ရှိရပါသည်။**

တော်ကူးရိပ်သာကျောင်းသည် ရွှေကျင်ဂိုဏ်းဝင်ဖြစ်၍ သံဃာများအား ဆေးလိပ်သောက်ခွင့်မပြုချေ။

ဦးနာဂိန္ဒသည် ဦးအောင်သိန်း၏ စာကိုယူဖတ်ပြီး 'တပည့်တော်စာပြန်ပေး လိုက်ရမလား ဘုရား'ဟု ဆရာတော်အား မေးလျှောက်၏။

'အေး အေး ပြန်လိုက်ပေါ့ တော်ကူးရိပ်သာမှာ ဆေးလိပ် မခိုးသောက်ရဘူး ဆိုတာကိုပါ ထည့်ရေးလိုက်' ဦးနာဂိန္ဒသည် ခေါင်းနားပန်းကြီးသွား၏။ မိမိ ဆေးလိပ် ခိုးသောက်ခဲ့သည်ကို ဆရာတော် မြင်သိနေပါပကော။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၅)

**တော်ကူးဆရာတော်ကြီးသည် ဆုံးမစကားများ ပြောကြားရာတွင် အသေအချာ လိုက်၍ ကြည့်နေသကဲ့သို့ သိပြီး မြင်ပြီးဖြစ်ကြောင်း ဖြစ်နေပုံကို ဤသို့ဖတ်ရှုရပါသည်။**

တစ်နေ့တွင် ရိပ်သာနေ ရဟန်းတစ်ပါးက ကုဋီတက်၏။ ကုဋီတွင် ရေအနည်းငယ်သာ ကျန်ရှိနေသည်ကို ထိုရဟန်းက ကုတ်ကတ်သုံးပြီးနောက် ဆရာတော်ကျောင်းပေါ်သို့ တက်လာ၏။ ဆရာတော်က လဲလျောင်းနေရာမှ ရဟန်းများအား သြဝါဒပေးသည့် အသွင် မိန့်ဆိုလိုက်သည်မှာ -

'ဦးပဥ္စင်းတို့ ကုဋီသုံးရေ သောက်ရေ ခြေဆေးရေတွေ ကုန်နေတာကို တွေ့ရင် ခပ်ထည့်နော်၊ ဒါဟာ ရဟန်းတိုင်းရဲ့ တာဝန်တစ်ရပ်ပဲကွယ် မပျက်မကွက် ကြနဲ့' ထိုရဟန်းသည် မိမိအား ရည်ရွယ်၍ ဆရာတော်အမိန့်ရှိကြောင်း တစ်မုဟုတ်ချင်း သိလိုက်သဖြင့် ရှုံးတိုးရှန့်တန့် ဖြစ်သွားလေသည်။

တစ်ညနေတွင် ဆရာတော်သည် ဦးနာဂိန္ဒ ကိုရင်သီဟတို့နှင့်အတူ ကျောင်း ပရိဝုဏ်အတွင်း၌ လမ်းလျှောက်ကြ၏။ ကျောင်းဝင်းအတွင်း၌ ဇီးရင့်နေသည့် ခွေးမ တစ်ကောင်ရှိ၏။



ထိုခွေးမသည် ကလေးမွေးပြီးသည့်အသွင်ဖြင့် ဝမ်းဗိုက်ပိန်ချပ်သွားပြီး နို့အုံ တင်းနေ၏။ အမည်မသိသူတစ်ဦးက ကျောင်းဝင်းထဲသို့ ၁၀ ရက်သားအရွယ်လောက် ရှိသည့် ခွေးပေါက်စနှစ်ကောင်ကို လာစွန့်ပစ်ထား၏။

ထိုခွေးကလေးနှစ်ကောင်သည် နို့ဆာ၍ တအင်းအင်းအော်ငိုနေ၏။ ခွေးမ သည် မိမိ၏နို့အုံ တင်းနေသည့်အတွက် အနေခက်၍လားမသိ၊ ထိုခွေးကလေး နှစ်ကောင်ကို နို့တိုက်ပေးနေလေ၏။

ဤထူးဆန်းသော အခြင်းအရာကို မြင်တွေ့ရသည့်အခါ ဦးနာဂိန္ဒက ဟင် ဒီခွေးမ ကလေးမွေးပြီးသွားပြီနဲ့ တူတယ်ဟု မှတ်ချက်၏။

ကိုရင်သီဟကလည်း 'အဲဒီခွေးကလေး နှစ်ကောင်ဟာ ခွေးမရဲ့ ကလေးတွေ မဟုတ်ဘူးဘုရား၊ သူများတွေက ကျောင်းထဲလာစွန့်ပစ်ထားတာ' ဟု မိမိသိထား သလောက် ဖြည့်စွက်ပြောလိုက်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၅ )

တော်ကူးဆရာတော်ကြီးသည် ဖြစ်ရပ်အမှန်များကို ကြိုတင်တွက်ဆ မိန့်ကြားထား ကြောင်း သိရှိရပါသည်။ မပြောမီကသိနေနှင့်သဖြင့် တပည့်တို့မှာ ပိုမိုကြည်ညိုရသည်ဟု ဆိုကြ ပါသည်။

ထိုအခါ ဘိုးဘုရားက ဘုန်းကြီးသိတယ်လေ၊ ဒီခွေးမဟာ ဓမ္မာရုံအောက်မှာ ကလေးမွေးပြီးပြီကွယ်၊ မွေးပြီးစကလေးတွေကို သူစားလိုက်တယ်၊ အခု သူ့နို့တင်းတော့ သူ့ကလေးမဟုတ်တဲ့ ခွေးကလေးနှစ်ကောင်ကို နို့တိုက်ပေးနေတယ်လေ။ အဟိတ် တိရစ္ဆာန်တွေက အမှားအမှန် ခွဲခြားမသိကြဘူး။

ဘိုးဘုရားကို စကားမှန်မမှန်ကို သိလိုကြသော ကိုရင်သီဟတို့သည် ဓမ္မာရုံ အောက်သို့ ချောင်းကြည့်ကြ၏။ ခွေးမ၏ကလေးများကို ရှာမတွေ့ကြ။ ခွေးကလေးများ ကို ကိုက်စားထားသည့် အထောက်အထားများကိုသာတွေ့ကြရ၏။

ဆရာတော် မပျံလွန်မီ တစ်နှစ်ခန့်တွင် ဦးလှို၊ ဦးတရုတ်၊ ဦးဘခွေး၊ ဦးအောင်ရှိန် စသော ဒကာကြီးတစ်စုက အငြင်းအခုံဖြစ်ကြပြီး၊ ဆရာတော်၏ ကျောင်းပေါ်သို့ တက်လာကြ၏ ဆရာတော်အား အချေအတင် တင်ပြလျှောက်ထားကြရန်ဖြစ်၏ဟု ဆိုကြပါသည်။ သို့သော် ဦးချကန်တော့ကြပြီး နှုတ်မဟနိုင်မီ ဆရာတော်၏ စကားတော်ကြောင့် အားလုံးအံ့သြကြရပါသည်။

ဒကာတို့ ဒီရိပ်သာကျောင်းမှာ ဒကာတွေ၊ ရဟန်းတွေ၊ သာမဏေတွေ ဘယ်လိုနေထိုင်ကြတယ်၊ ကျင့်ကြံကြတယ်၊ စားသောက်ကြတယ်၊ ပြောဆိုကြတယ်၊ အစရှိတာတွေကို ဘုန်းကြီးအကုန်သိပါတယ်။

ဒီလိုသိလို့လဲ ကျောင်းထိုင်ဆရာတော်လုပ်နေတာပဲ၊ ဒကာတို့ရဲ့ အငြင်းအခုံ ကိစ္စတွေကို ဘုန်းကြီးကို တစ်လှည့်စီ လျှောက်တင်နေကြဖို့မလိုဘူး။

သာသနာတော်ရဲ့ အကျိုးကိုထောက်ရှုပြီး စိတ်စေတနာ ကောင်းကောင်းနဲ့ မိမိစွမ်းနိုင် သလောက်သာ ကူညီဆောင်ရွက်ကြပါ။ အချင်းချင်း သင့်သင့်မြတ်မြတ် ညီညီညွတ်ညွတ်နေထိုင်ပြီး မေတ္တာရှေ့ရှုပြီး ဆောင်ရွက်ကြပါ၊ ဘုန်းကြီး ဒါကိုပဲ မေတ္တာရပ်ခံချင်ပါတယ်။



ကဲ သွားကြ သွားကြ လုပ်စရာရှိတာလုပ်ကြ' ဒကာများလည်း နှုတ်ပိတ်ကာ ဖယ်ခွာသွားကြရ၏။ အချင်းချင်း မေတ္တာရှေးရှုပြီး ညှိနှိုင်းတိုင်ပင်ကြရာ ညီညွတ်သွားကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၆)

ဆရာတော်ကြီးသည် တပည့်များနှင့်ပတ်သက်၍ ဆွေဟောင်းမျိုးဟောင်းများပမာ ပုံသဏ္ဌာန်မျိုးစုံဖြင့် ကယ်တင်စောင့်ရှောက်ခဲ့ကြောင်း ထင်ရှားလှပါသည်။ ထိုအချက်ကို ယခုပြောပါမည်။

မွန်ပြည်နယ်မြို့တစ်မြို့မှ ဆရာဝန်ကြီး၏သမီး စီးပွားရေး ဂုဏ်ထူးဘွဲ့ရသူနှင့် အလယ်တန်းပြ ဆရာမတစ်ဦးတို့သည် တော်ကူးရိပ်သာတွင် ရက်အသင့်အတင့် အားထုတ်ပြီးနောက် ဆရာတော်အားကန်တော့၍ ပြန်ခွင့်တောင်းကြ၏။

'သမီးတို့ မပြန်ကြနဲ့ဦးနော်၊ သုံးကြိမ်ငိုပြီးမှ ပြန်ကြရမယ်၊ အဲဒီအခါမှ တရားအားထုတ်ရကျိုး နပ်ကြမယ်နော်'

ဆရာတော်၏ အလေးအနက် မှာကြားချက်ကြောင့် ထိုနေ့ညနေတွင် သူတို့ မပြန်ကြသေးဘဲ ဓမ္မာရုံတွင် မတ်တတ်ရပ်ကာ တရားရှုမှတ်ကြ၏။ ဆရာတော် မိန့်ကြားခဲ့သည့်အတိုင်း သူတို့ငိုကြရလေပြီ။

သူတို့၏ ခြေဖဝါးများသည် သံပြားပူပေါ်တွင် သံမှိုစွဲထားသည့်နှယ် ခွာမရ၊ ရွှေ့မရဘဲ အတင်းပူလောင်ခံနေကြရ၏။

သူတို့သည် အရှင်လတ်လတ် ငရဲခံနေကြသည့်ပမာ လူးလွန့်ကာ ဝေဒနာကို ကျိတ်မှိတ်ခံစားနေရပြီး မျက်ရည်ဖြိုင်ဖြိုင်ကျကြရ၏။ တစ်နာရီခန့် ပူလောင်ခံကြရပြီး နောက်တွင်မှ တရားဖြုတ်၍ရကြ၏။

နောက်နေ့ နောက်နေ့ ၂ ရက်ဆက်ကာ ပူလောင်ခံကြရပြီး ငိုယိုကြရပြန်၏။ သူတို့သည် တကယ်ပူလောင်ခံကြရသဖြင့် ခြေဖဝါးများနှင့် ခြေဖမိုးများတွင် နီရဲသော မီးလောင်ဖုကလေးများပင်ပေါ်လာကြ၏။

နောက်တစ်ရက်ဆက်၍ အားထုတ်သည့်အခါ၌မူ ပူလောင်ခံရခြင်း မရှိတော့ချေ။ အေးငြိမ်းစွာ တရားရှုမှတ်နိုင်ကြ၏။

အတိတ်က ဝဋ်ကြွေးကို တရားနှင့်ပေးဆပ်နိုင်ခဲ့ကြပေပြီ။ ဆရာတော်မိန့်မှာခဲ့သည့်အတိုင်းပင် သူတို့သည် တရားအားထုတ်ရကျိုးနပ်ကြပြီဖြစ်၍ ရွှင်လန်းဝမ်းမြောက်စွာ အိမ်ပြန်သွားကြလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၇ )

တော်ကူးဆရာတော်ဘုရားကြီးသည် ရုံဖန်ရံခါ သို့မဟုတ် မကြာမကြာပင်လျှင် အံ့သြဖွယ်ကောင်းလောက်အောင် ကြိုတင်ပြောဆိုခဲ့ပေသည်။

ဆရာတော်သည် မပျံလွန်မီ ၂ ရက်က 'မနက်ဖြန် နိုင်ငံခြားဧည့်သည်တွေလာကြမယ်' ဟု ကြိုတင်မိန့်ဆိုခဲ့သည့်အတိုင်း နောက်နေ့တွင် ဂျပန် ဂျာမန် ချက်ကိုစလားဗီးယန်း စသည်တို့ ပါဝင်ကြသော ဂမ္ဘာ့ကုလသမဂ္ဂဖွံ့ဖြိုးရေး စီမံကိန်း(UNDP)မှ ပုဂ္ဂိုလ်များ လာရောက်ကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၇ )



တော်ကူးဆရာတော်ကြီးသည် မိမိပျံလွန်တော်မူမည့်ရက်ကို ကြိုတင် အရိပ်အမြွက် ပြောကြားခြင်းပြုပါသည်။ ၎င်းနောက် မှာသင့်သည်များကိုမှာပါသည်။

ဆရာတော်သည် မိမိပျံလွန်တော်မူမည့်ရက်ကို ကြိုတင်၍ အရိပ်အမြွက် ပြောကြားထားသည့်အတွက် နောက်ဆုံး ၃ ရက်၌ အပြုံးအရွှင်ဆုံး နေထိုင်သွားကာ အဖူးအမြော်လာရောက်သူတိုင်းအား ကန်တော့ခံ၍ မိမိ နာမကျန်းဖြစ်နေသည်ကို မေ့ဖျောက်လျက် လူတိုင်းပျော်ရွှင်ချမ်းမြေ့သွားစေရန် ရယ်စရာမောစရာများ ပြောကြားသွားတော်မူ၏။

မပျံလွန်မီ ၁ ရက်က မော်လမြိုင်မြို့မှ သတိပဋ္ဌာန်အဖွဲ့ရောက်လာသည့်အခါ၌လည်းကောင်း သူတို့နှင့် နောက်ထပ်တစ်ဖန် ပြန်လည်၍ ဆုံတွေ့တော့မည် မဟုတ်သည်ကို အရိပ်အမြွက်ပြသည့်အနေဖြင့် တွေ့ဆုံကြုံကွဲ၊ 'မမြဲလောက၊ သင်္ခါရတရားပဲနော်'ဟု နှုတ်ဆက်၏။

မော်လမြိုင်ဆရာအတတ်သင် အဖွဲ့တစ်ဖွဲ့အားလည်း 'ခန္ဓာဇာတ်သိမ်း၊ ချုပ်ငြိမ်းနိဗ္ဗူတာ' ဟု သုံးခေါက်တိုင်ပေးခဲ့၏။

ယောဂီများအား 'ညည်းညူမရှိ သတိမမေ့၊ ချိန်နေ့သိပြန်၊ မျက်လန်ကြောဆွဲ၊ မရှိဘဲနှင့် သေလည်းမတောင့်တင်း၊ ပုပ်နံ့ကင်းသည်၊ ကျိုးရင်း ဝိပဿနာတန်ခိုးတည်း' ဟူသော လင်္ကာကို အကြိမ်ကြိမ် ချပေးခဲ့ပြီး မိမိ၏ ကျောင်းနံရံထက်၌ ထိုလင်္ကာကို ရေးသားထားစေခဲ့၏။

ဤသည်တို့ကား မကြာမီ မိမိပျံလွန်ရတော့မည်။ ပျံလွန်ပြီးသည့်နောက် တောင့်တင်းပုပ်နံခြင်း ကင်းမည်ဆိုသည်တို့ကို ကြိုတင်မိန့်ဆိုနေခြင်းပင် မဟုတ်ပါလော။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၈)

တော်ကူးဆရာတော်ဘုရားကြီး ပျံလွန်တော်မူခြင်းနှင့်စပ်လျဉ်း၍ ဆရာတော်ပျံလွန်တော်မမူမီ ကာလပင်လျှင် ထူးဆန်းသောဖြစ်ရပ်များ ဖြစ်ပေါ်ခဲ့ပါသည်။ ထိုအချက်အလက်များကို ထောက်ထား၍ခန့်မှန်းကြည့်ညှိနိုင်ပါသည်။

## ကြာသက်န်းနှင့် ကနက္ကဒတ်ထီးဖြူ -

ဆရာတော်မပျံလွန်မီ ၄ လအထိ (၁၁-၁၂-၈၆)ရက်နေ့၌ ထူးခြားသော အလှူရှင်တစ်စု ဆရာတော်ထံမှောက်သို့ ရောက်လာကြပြီးလျှင် ထူးဆန်းသည့်အလှူများကို ပေးလှူသွားကြသည်။

ထိုအလှူရှင်တစ်စုတွင် ရုပ်ရည်လှပချောမောသော အမျိုးသမီး ၃ ဦးနှင့် အမျိုးသား ၂ ဦး တို့ ပါဝင်ကြ၏။ သူတို့သည် နေ့လယ်အချိန်တွင် ဒတ်ဆန်းအငှားကားတစ်စီးဖြင့် တော်ကူးရိပ်သာသို့ရောက်လာကြ၏။ ဆရာတော်၏ ကျောင်းကလေးပေါ်သို့ တက်သွားကြပြီးလျှင် ဆရာတော်အား ဦးညွှတ်ကန်တော့ကြ၏။ ထို့နောက် ဆရာတော်အား ရိုသေစွာ ခွင့်ပန်ပြီးလျှင် မှန်ဘီလူးဖြင့် လက္ခဏာ ခြေဇဏာများကို သေချာစွာ စစ်ဆေးကြည့်ရှုကြ၏။

ထို့နောက် 'ဟုတ်ပြီ' ဟု မှတ်ချက်ချကြပြီးလျှင် ကားဆီသို့ ဆင်းသွားကြ၏။



ကားထဲမှ ကနက္ကဒဏ်ထီးဖြူကြီး တစ်လက်နှင့် ကြာသက်န်းတစ်စုံတို့ကို ယူဆောင်လာကြပြီးလျှင် ဆရာတော်အား ကြည်ညိုလေးမြတ်စွာ ဆက်ကပ်လှူဒါန်းကြ၏။

ထိုကြာသက်န်းသည် ၃ နှစ်ကြာ ရက်လုပ်ရသော အလွန်တန်ဖိုးကြီးသည့် သက်န်းတစ်စုံဖြစ်၏။

**'ဆရာတော် အရှင်သူမြတ်အား ခန္ဓာဝန်ချတော်မူလျှင် ဤကြာသက်န်းကို ဝတ်ရုံပြီး ဤကနက္ကဒဏ်ထီးဖြူအောက်တွင် ခန္ဓာဝန်ချပါဘုရား' လျှောက်ထားကြ၏။**

'ကောင်းပြီ သာဓု သာဓု'

ဆရာတော်သည် ဆုပေးပြီးနောက် ကြာသက်န်းကို ခေတ္တဝတ်ရုံပြီးလျှင် မိမိ၏ သက်န်းအဟောင်းကို စွန့်ကြဲတော်မူ၏။

ထိုအလှူရှင်တို့သည် ဆရာတော်အား နဝကမ္မအလှူငွေ ၂၀၀ ကျပ်နှင့် သံဃာတော်အတွက် ဆွမ်းအလှူငွေ ၂၀၀ ကျပ် ထပ်မံလှူဒါန်းကြပြီး ကျောင်းပေါ်မှ ဆင်းသွားကြ၏။

ထိုသို့ ထူးဆန်းသည့်အလှူကို ပေးလှူရာ၌ ဆရာတော်၏ တူဖြစ်သူ ဦးအုန်းဖေသည် အနီးဝန်းကျင်တွင် ရှိနေသဖြင့် ထိုသူတို့လျှောက်ထားတောင်းပန်သော စကားဆန်းများကို ကြားလိုက်ရ၏။

**ဦးအုန်းဖေက သူကြားရသော စကားမှာ 'အရှင်ဘုရား၊ ဤကြာသက်န်းကို ဝတ်ရုံပြီး ဤကနက္ကဒဏ် ထီးဖြူအောက်မှာ ခန္ဓာဝန်စွန့်တော်မူပါ' ဖြစ်သည်ဟုဆို၏။**

ဤသို့ ထူးဆန်းသည့်အတွက် အလှူရှင်များ ဆင်းသွားကြသည့်အခါ ဦးအုန်းဖေလည်း နောက်နားမှလိုက်ဆင်းသွား၏။

အလှူရှင်တို့သည် ကျောင်းလှေကားနားရှိ သရက်ပင်ရင်းသို့ ရောက်သောအခါ 'အောင်ပြီ အောင်ပြီ အောင်ပြီ'ဟု လက်မြှောက်၍ ကြွေးကြော်ကြပြီးလျှင် စေတီအနီး စိုက်ပျိုးထားသည့် ဗောဓိပင်ဆီသို့ ထွက်ခွာသွားကြ၏။

ဆရာတော်ကြီးသည် ထိုနေ့မှစ၍ ကနက္ကဒဏ်ထီးဖြူကို မိမိ၏ အိပ်ရာခေါင်းရင်း၌ အမြဲဖွင့်လျက်ထူထားစေ၏။

'အရှင်ဘုရား ထီးဖြူ ကြာရင် ညစ်နွမ်းသွားမယ်၊ အခုသိမ်းထားပြီး အခမ်းအနားတွေ ကျင်းပတဲ့အခါကျမှဖွင့်ရင် မကောင်းဘူးလား' ဟု ဒေါ်တင်ရွှေ လျှောက်ထားသည့်အခါ 'နေပါစေမသိမ်းနဲ့၊ အခုလိုဖွင့်ထားတာ ကျေးဇူးများတယ်' ဟု ဆရာတော်ကမိန့်တော်မူ၏။

ဆရာတော်ပျံလွန်တော်မူသည့်အခါ ရုပ်ကလာပ်တော်ကို ထိုကြာသက်န်းဖြင့် လွှမ်းခြုံထားကြ၏။ ကနက္ကဒဏ်ထီးဖြူကိုလည်း ရုပ်ကလာပ်အနီးတွင်ထူထားကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၈-၁၂၉ )

တော်ကူးဆရာတော်ကြီးနှင့် ထီးဖြူတော်ကြီးနှင့်စပ်လျဉ်း၍ တပည့်ကြီးများက အောက်ပါအတိုင်း တွက်ဆကြပါသည်။



သို့အတွက် တော်ကူးဆရာတော်အား 'ကြာသက်န်းဝတ်ရုံ၍ ကနက္ကဒဏ်ထီးဖြူအောက်တွင် ခန္တာဝန်ချတော်မူပါဘုရား' ဟု လျှောက်ထားခြင်းသည် အာယုသင်္ခါလွှတ်ရန် လျှောက်ထားခြင်းမျိုးပေလော။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၁ )

တော်ကူးဆရာတော်ဘုရားကြီးသည် မိမိလုပ်သင့်လုပ်ထိုက်သည်များကို လုပ်ရဦးမည် ဖြစ်ကြောင်း လုပ်စရာများ ကျန်သေးသည်ကို ပြီးဆုံးအောင် လုပ်သွားကြောင်း သိရှိရပါသည်။

ထိုမှသာမကသေး ဆရာတော်မပျံလွန်မီ တစ်ရက်နှစ်ရက်လောက်တွင် ဆရာတော် အချိန်လု၍ အပြင်းအထန်ရှုမှတ်နေစဉ် တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်အား **လက်တော်ဖြင့် ဟန့်ထားဟန်ပြု၍ နှုတ်တော်မှလည်း 'ဟော့ ဟော့ နေဦး ငါ့ဆွေမျိုးတွေ လာကြဦးမယ်၊ လူစုံတဲ့အထိ စောင့်ပါဦး'ဟု နှစ်ကြိမ်သုံးကြိမ် ဖွင့်ဟမိန့်ဆိုခဲ့၏။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၁ )

ထိုအကြောင်းနှင့်စပ်လျဉ်း၍ အတွင်းနေ တပည့်ကြီးများက အောက်ပါအတိုင်း ထင်မြင်ချက်ပေးကြပါသည်။

ဤသည်လည်း မာရ်နတ်၏ အသင်းဝင်တစ်ဦးက တော်ကူးဆရာတော်အား ခန္တာဝန်ချရန် လောဆော်နေခြင်းပေလော။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၁ )

**တော်ကူးဆရာတော်ကြီးသည် မိမိ၏ တပည့်များကို ဆွေတော်မျိုးတော်များပမာ အမွေပေးပုံမှာ လွန်စွာကြည်ညိုဖွယ်ရာဖြစ်ပါသည်။**

## ဆံပင်ဓာတ်လုံးတော်

ဆရာတော်သည် မပျံလွန်မီ တစ်နှစ်ကျော်လောက်စ၍ မိမိကို ဆံရိတ်သည့်အခါ ဆံပင်စကလေးများကို သိမ်းဆည်းထားရန် တပည့်တို့အားတိုက်တွန်း၏။

'ဦးပဥ္စင်းတို့ ဘုန်းကြီးရဲ့ဆံပင်ကို သိမ်းထားကြပါလား၊ ပူဇော်ချင်တဲ့သူတွေ တောင်းတဲ့အခါပေးရတာပေါ့' ဆရာတော်၏စကားကို မပယ်ရှားလိုသဖြင့် ဦးဝါယာမသည် ဆံစအချို့ကို ပလပ်စတစ်ပုလင်းတစ်လုံးတွင် ပေါ့ပေါ့တန်တန်ပင် ထည့်ထားလိုက်၏။

မိုးတွင်းရောက်သည့်အခါ ပလပ်စတစ်ပုလင်းထဲမှ ဆံစများ ဟောင်းလာပြီဟု ယူဆ၍ ဦးဝါယာမ သွန်ပစ်လိုက်၏။

မိုးဥတုလွန်သည့်အခါ ဆရာတော်ထပ်မံတိုက်တွန်းသဖြင့် ဦးဝါယာမသည် ဆံစအချို့ကို သိမ်းဆည်းထားပြန်၏။ သိမ်းဆည်းထား၍ မေ့သလောက်ရှိသောအခါတွင် ဆံစတောင်းသူတစ်ဦး ထူးထူးဆန်းဆန်းပေါ်ပေါက်လာ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၄ )

တော်ကူးဆရာတော်ဘုရားကြီးအကြောင်းနှင့်စပ်လျဉ်း၍ ရဟန္တာတစ်ပါး ပေါ်နေသည်ဟု အိပ်မက်အရ လာရောက်ဖူးမြော်သူကို တွေ့ရှိရပါသည်။



ထိုသူသည် ကော့ကရိတ်မြို့မှ ရဟန်းတော် တစ်ပါးဖြစ်ပြီး ဘုရားဓာတ်တော်များနှင့် ရဟန္တာဓာတ်တော်များကို စုဆောင်းနေသူတစ်ဦးဖြစ်၏။

ထိုရဟန်းသည် အဓိဋ္ဌာန်ဝင်၍ 'ဓာတ်တော်များ ကိန်းဝပ်သည့် နေရာများကို မြင်သိနိုင်ပါစေသား'ဟု ဆုတောင်းလေ့ရှိ၏။

တစ်ကြိမ်တွင် အိပ်မက်အရ ယိုးဒယားနယ်စပ်အနီးရှိ ရှမ်းပြည်နယ်တောင်ခေါင်းတစ်ခုတွင် ရဟန္တာဓာတ်တော် မြောက်မြားစွာကို သူရရှိခဲ့၏။

တစ်ဖန် ရန်ကုန်မြို့၌ သီတင်းသုံးစဉ် 'မော်လမြိုင်မြို့နှင့် ကျိုက္ခမီအကြားရှိ တော်ကူးရွာမှာ ရဟန္တာတစ်ပါး ပေါ်ထွန်းနေသည်' ဟု ထိုရဟန်းအိပ်မက်ရပြန်၏။ ဤအိပ်မက်အရ တော်ကူးဆရာတော်ထံသို့ သူရောက်လာခြင်းဖြစ်၏။

ထိုရဟန်းသည် ဆရာတော်၏ ခြေတော်အစုံကို ဦးတိုက်ရှိခိုးပြီးနောက် မိမိဆောင်ယူလာသော ရဟန္တာဓာတ်တော် (၂၀)ဆူကို ဆရာတော်အား ပေးလှူ၏။

ထို့နောက် ဆရာတော်၏ အသုံးအဆောင်ပစ္စည်းအချို့ကို အလှူခံယူပြီးလျှင် ဆရာတော်၏ ဆံပင်များကိုတောင်းခံ၏။

'ဆရာတော်ရဲ့ ဆံပင်တွေဟာ ဓာတ်တော်လို လုံးနေရမယ်၊ ဆရာတော်ရဲ့ ဆံပင်စတွေ သိမ်းထားတာမရှိဘူးလား' ထိုအခါမှ ဦးဝါယာမသည် မိမိသိမ်းဆည်းထားသည့် ပလပ်စတစ်ပုလင်းကိုသွားယူ၏။ ဖွင့်ကြည့်လိုက်သည့်အခါ ဆံပင်စများသည် အချင်းချင်း ယှက်သန်းကာ ခြင်းလုံးပုံစံဖြစ်လျက် ထိပ်ပိုင်းတွင် စေတီပုံသဏ္ဌာန် ချွန်တက်နေ၏။

ထိုဆံပင်ဓာတ်တော်ကို ကော့ကရိတ်ရဟန်းအား ပေးလှူလိုက်ရ၏။ ထို့နောက်တွင် ဆရာတော်ကို ဆံရိတ်တိုင်း ရဟန်းယောဂီနှင့် လူယောဂီတို့သည် ဆံတော်များကို အလုအယက် ခွဲဝေယူကြ၏။ ပူဇော်ထားသူတိုင်း၌ ဆံတော်များ လိမ်ယှက်သော ဓာတ်တော်လုံးများ ဖြစ်လာကြ၏။

ဆံစများသည် စေတီငယ်သဏ္ဌာန် အထွတ်တင်လျက် အဆင့်ဆင့် လိမ်ယှက်ကာ လုံးဝန်းသွားကြပုံမှာ အံ့ဩစရာကောင်းလှပေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၅ )

တော်ကူးဆရာတော်ကြီးသည်သည် ထူးခြားစွာ အသံအနေအထား ပြောင်းလဲနေကြောင်း အံ့ဩကြည်ညိုဖွယ် အောက်ပါအတိုင်း ဖတ်ရှုရပါသည်။

## ထူးခြားသည့်အသံတော်

တော်ကူးရိပ်သာသည် ၂ ဧကခန့် ကျယ်ဝန်း၏။ ဆရာတော်သီတင်းသုံးသော စင်္ကြံကျောင်းကလေးနှင့် ဓမ္မာရုံသည် ကိုက်တစ်ရာခန့်ကွာ၏။ ဆွမ်းစားကျောင်းက အနည်းငယ် ပိုဝေးပြီး သိမ်ကျောင်းနှင့် စင်္ကြံကျောင်းမှ ကိုက်နှစ်ရာကျော်ကွာဝေး၏။

စင်္ကြံကျောင်းပေါ်တွင် သာမန်လူတို့ ပြောဆိုသော အသံများကို မဆိုထားဘိ၊ အော်ပြောသံ များကိုပင် ဓမ္မာရုံ၊ ဆွမ်းစားကျောင်းနှင့် သိမ်ကျောင်းတို့တွင် မကြားနိုင်ချေ။



ဆရာတော်သည် အားရပါးရ လှိုက်လှိုက်လှဲလှဲ ပြောဆိုတတ်သဖြင့် ဆရာတော်၏အသံသည် သာမန်လူတို့၏ အသံထက် အနည်းငယ်ပိုကျယ်သည်ဟု ထင်မှတ်ရ၏။ သို့သော် လေဖြတ်ခံရပြီးသည့်နောက်၌ ဆရာတော်သည် စကားလုံးများကို ပီသစွာ မရွတ်ဆိုနိုင်သည့်အပြင် စကားသံဖြစ်အောင်ပင် အထူးအားစိုက်၍ ပြောကြားရသဖြင့် အသံကျယ်သည်ဟု မဆိုနိုင်ပါချေ။

သို့စဉ်လျက် ဆရာတော်၏ စင်္ကြံကျောင်းပေါ်၌ ပြောဆိုသော စကားတို့ကို ဓမ္မာရုံ၌လည်းကောင်း ဆွမ်းစားကျောင်း၌လည်းကောင်း သိမ်ကျောင်း၌လည်းကောင်း ရိပ်သာဝင်းအတွင်း နေရာအားလုံး၌လည်းကောင်း ပီပီသသကြားနိုင်သည်ဆိုလျှင် အံ့ဩစရာ မကောင်းပေဘူးလား။

တော်ကူးဆရာတော်ကြီး၏ ထူးခြားသောအသံတော်နှင့်စပ်လျဉ်း၍ တစ်စတစ်စ ထူးခြားမှန်း သိလာကြပါသည်။ ပဝမက ထူးမှန်းမသိကြသေးပါ။

၁၉၇၉ ၁၉၇၉ ခုနှစ်က တော်ကူးရိပ်သာတွင် ကျွန်တော် တရားအားထုတ်စဉ်က ဤထူးခြားချက်ကို ကျွန်တော်မသိရှိရသေးပါ။ ဆရာတော်အား လေဖြတ်ပြီးသည့်နောက်ပိုင်းတွင်မှ ဤအခြင်းအရာ ပေါ်လွင်လာခဲ့ရ၏။ သို့စဉ်လျက် သတိမမူသူများမှာ မိမိတို့ကြားသိကြရပါလျက် သာမန်ဖြစ်စဉ် တစ်ရပ်ဟုထင်မိလိုက်ကြ၏။

ဒေါ်တင်ရွှေတို့သည် ဆွမ်းစားကျောင်း၌ ဆွမ်းပြင်ရင်း စင်္ကြံကျောင်းမှ ဆရာတော်ပြောဆိုသည့် စကားသံများကို အတိုင်းသားကြားနေကြရ၏။

'အိုး ဘိုးဘုရားက ဘာတွေများ အားရပါးရ ပြောနေပါလိမ့် ဘိုးဘုရား အသံကလဲ အော်ကျယ်အော်ကျယ်နဲ့'ဟု သာမန်မျှမှတ်ချက်ချ၏။ တကယ် ကျကျနနစူးစမ်းသည့် ပုဂ္ဂိုလ်နှစ်ဦးမှာ စမတောင်မှ ဦးပဥ္စင်း ဦးဇဝနနှင့် သူ၏ သီတင်းသုံးဖော် ဦးပဥ္စင်းတို့ဖြစ်ကြ၏။

ဦးဇဝနသည် စမတောင်ပေါ်၌ မေတ္တာဘာဝနာ၊ ကသိုဏ်း၊ ဓုတင်အကျင့်စသည်တို့ကို ပြင်းပြင်းထန်ထန် ကျင့်ကြံခဲ့ပြီးလျှင် တော်ကူးဆရာတော်ထံ၌ ၃ လနီးပါး စနစ်တကျ အားထုတ်ခဲ့ရသူဖြစ်၏။ တရားအားထုတ်မှုနှင့် ပတ်သက်၍ တော်ကူးဆရာတော်ကိုယ်တိုင် သာဓုခေါ်ပြီး ချီးမွမ်းခံရသူဖြစ်၏။

ဦးဇဝနသည် တော်ကူးဆရာတော် မပျံလွန်မီ ၃ လကျော်လောက်တွင် တော်ကူးဆရာတော် ရိပ်သာသို့ ရောက်လာပြီး ဆရာတော်ပျံလွန်ချိန်တွင် ရိပ်သာ၌ပင် ရှိနေသေး၏။ ဆရာတော်အား အနီးကပ်ပြုစုခဲ့သူ တစ်ဦးလည်းဖြစ်၏။

ဆရာတော်ပျံလွန်ပြီးသည့်နောက် ဦးဇဝနအား ကျွန်တော်တွေ့ဆုံရာ ဦးဇဝနသည် တော်ကူးဆရာတော်နှင့် ပတ်သက်သည့် အရေးပါသော အချက်များစွာကို ပြောကြားခဲ့၏။

'ဆရာတော်ရဲ့ ထူးခြားတဲ့ အသံတော်ကို ဒကာကြီးသတိထားမိရဲ့လား'

'သတိမထားမိဘူးဘုရား၊ ဘယ်လိုပါလဲ'

'ဆရာတော် ကျောင်းပေါ်မှာ ပြောဆိုတဲ့စကားကို ရိပ်သာဝင်းအတွင်း နေရာအားလုံးက အတိုင်းသား ကြားရတယ်လေ ဒကာကြီး'



'ဟင် ဒီလိုဆိုရင် သိပ်ထူးခြားတာပေါ့ဘုရား'

'ဟုတ်တယ် ဦးပဥ္စင်းနဲ့ ဦးပဥ္စင်းအဖော်တို့က နေရာအမျိုးမျိုးကနေပြီး စူးစမ်းကြတယ်လေ၊ ဆရာတော်အနီးမှာနေပြီး ကြားရတဲ့အတိုင်း ဓမ္မာရုံမှာလဲကြားရတယ်၊ သိမ်ကျောင်းမှာလဲ ကြားရတယ်၊ တခြားသူတွေကိုပြောပြီးတော့ သူတို့လဲ အလားတူကြားကြရတယ်'

'အင်း မြတ်စွာဘုရားရဲ့ တရားတော်ကို တရားနာပရိသတ် ဘယ်လောက်များများ အားလုံးက ကြည်ကြည်လင်လင် ပြတ်ပြတ်သားသား ကြားနာကြရတယ်လို့ ကြားဖူးတယ် အခုဟာက ဆရာတော်က အဓိဋ္ဌာန်ပြီး ပြောတာလား၊ အဘိညာဉ်တန်ခိုးနဲ့ ပြောတာလားမသိဘူးနော်'

'ဟုတ်တယ်၊ သေသေချာချာ စဉ်းစားလေလေ ထူးခြားလေလေပါပဲ'

ကျွန်တော်သည် ပိုသေချာအောင် ဒေါ်တင်ရွှေနှင့် ယောဂီအချို့တို့ကို မေးမြန်းကြည့်သည်။ ဒေါ်တင်ရွှေက မထူးခြားသည့်ဟန်ဖြင့် ဘိုးဘုရားရဲ့စကားသံက ကျယ်လောင်ကျယ်လောင်နဲ့ ဆွမ်းစားကျောင်းမှာ တို့ဆွမ်းပြင်နေတာ အတိုင်းသား ကြားနေရတာပေါ့ ထူးခြားချက်ကားမှန်နေလေပြီ၊ ဒေါ်သက်သက်ခင်နှင့် ယောဂီအချို့တို့ကလည်း မှန်ကန်ကြောင်း ထောက်ခံကြပါသည်။ ကျွန်တော်တို့ မသိနားမလည်သော စွမ်းအားကား အမြောက်အမြားပင် ရှိနေသည်တကား။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၅-၁၃၇ )

**တော်ကူးဆရာတော်ကြီးအား နတ်ပြဟ္မာများ လာရောက်ဖူးမြော်ကြပုံကို ကြည်ညို ဖွယ်ရာ ဖတ်ရှုရပါသည်။**

တော်ကူးဆရာတော်ကြီးကိုလည်း ပျံလွန်ချိန်နီးကပ်လာသည့်အခါ နတ်များ လာရောက်ပူဇော်ကြသည့် အထောက်အထားများကို တွေ့ရှိရသည်ဟုဆို၏။

ပျံလွန်ရန် ၂ ရက်သာလိုတော့သည့် ညဥ့်၌ ရဟန်းတော်များက ပရိတ်တရားပူဇော်ပြီး စကြံကျောင်းပေါ်မှ ဆင်းသွားကြသည့်အခါ သိကြားမင်းနှင့် နတ်တို့က တစ်လှည့် ဝိဇ္ဇာရဟန်းတို့က တစ်လှည့် ရွတ်ဖတ်သရဇ္ဈာယ်ကြသည်ကို ဆရာတော်၏ စကားအရ ဆရာတော်အား စောင့်ကြပ်နေကြသည့် ဦးနာဂိန္ဒ၊ ကိုရင်သီဟနှင့် ဒကာများ ကြားသိရကြရ၏။

တစ်ဖန် ဦးနာဂိန္ဒနှင့် ကိုရင်သီဟတို့က ဆရာတော်ထံပါးတွင် ညဥ့်အိပ်စောင့်နေကြသည့်အခါ မမြင်ရသောပုဂ္ဂိုလ်တို့က ဆရာတော်အား ဝတ်ဖြည့်ကြကြောင်းကိုလည်း အထက်၌ ဖော်ပြခဲ့ပေပြီ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၃ )

ညဥ့်သန်းခေါင်အချိန်လောက်တွင် ဆရာတော်၏ အခန်းပြတင်းမှ မီးလုံးတစ်လုံး ဝင်ရောက်လာပြီး ဆရာတော်အနီး၌ ခေတ္တရပ်တည်လျက် ပြန်လည်ထွက်သွားသည်ကို ဦးပဥ္စင်းများက တစ်ကြိမ်မက မြင်တွေ့ကြရ၏။

တော်ကူးဆရာတော် ပျံလွန်သည့်ညဥ့်၌ ကျောင်းပရိဝုဏ် တစ်ခုလုံး ငြိမ်သက်တိတ်ဆိတ်နေပြီးလျှင် အလွန်သင်းပျံ့သည့် အမွှေးနံ့တစ်မျိုးသည် တစ်ကျောင်းလုံးကို ၄ ကြိမ်တိုင်တိုင် လွှမ်းခြုံထားလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၄ )



တော်ကူးဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်သောအခါ ဤသို့ အံ့ဖွယ် ကြည်ညိုရပါသည်။

## ရုပ်ကလာပ် မပုပ်ပွသည့်အကြောင်းရင်းများ

တော်ကူးဆရာတော်၏ ရုပ်ကလာပ်ကို ဆေးဝါးစသည်ဖြင့် ပြုပြင်မှုမရှိဘဲ ၂၅ ရက်တိုင်တိုင်ထားခဲ့ကြရာ၌ ရုပ်ကလာပ်တော်သည် သဘာဝဖြစ်ရပ်ကို လွန်ဆန်၍ ပုပ်ပွနံစော် ပျက်စီးယိုယွင်းခြင်း မရှိခဲ့ချေ။ နောက်ဆုံး မီးသင်္ဂြိုဟ်သည့်အခါ၌လည်း အညှော်နံ့နှင့် မကောင်းသောအနံ့အသက်များ လုံးဝ မထွက်ချေ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၄ )

တော်ကူးဆရာတော်ကြီး၏ နည်းနာနိဿယများကို ဖတ်ရှုရသဖြင့် လွန်စွာ အကျိုးထူးလှပါသည်။ ဆရာတော်ကြီး၏ အတွင်းနေတပည့်ကြီးများ ကောင်းမှုကြောင့် အောက်ပါအတိုင်း သိခွင့်ရခဲ့ပါသည်။

## မတ်တတ်ရပ်၍ ရှုမှတ်နည်း

တော်ကူးဆရာတော် ဦးနန္ဒိယသည် အသက် ၇၁ နှစ်အရွယ်ကျမှ ဝိပဿနာတရားကို စတင်ရှုမှတ်ခဲ့၏။ ထိုစဉ်အခါက ဆရာတော်အား မူးဝေခြင်းရောဂါ၊ မုတ္တရောဂါ၊ ပေါင်ကြောဆွဲရောဂါ၊ နှင်းခူရောဂါ စသည် ရောဂါမျိုးစုံ နှိပ်စက်နေသဖြင့် ဆရာတော်သည်ထိုင်၍ တရားမရှုမှတ်နိုင်ဘဲ မတ်တတ်ရပ်သည့် ဣရိယာပုထ်ဖြင့်ပင် တရားရှုမှတ်ခဲ့သည်။

ထိုမှတစ်ဖန် ဣရိယာပုထ်ကို ၃ နာရီ၊ ၄ နာရီ ၅ နာရီ စသည်ဖြင့် မပြောင်းဘဲ ကြာကြာရှုမှတ်သည့်အတွက် မိမိ၏ ရောဂါဝေဒနာများ ပျောက်ကင်းသွားသည်ကို အံ့သြဖွယ်ရာတွေ့ရှိရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၁ )

## လျှောင်းသည့် ဣရိယာပုထ်

တော်ကူးရိပ်သာ၌ လျှောင်းသည့် ဣရိယာပုထ်ဖြင့် တရားရှုမှတ်နေသောသူများကိုလည်း မြင်တွေ့ရ၏။ ဤဣရိယာပုထ်ဖြင့် တရားရှုမှတ်ခြင်းသည် ကျွန်တော်၏ အတွေ့အကြုံအရ အခက်ဆုံးဖြစ်၏။ ဖျာပေါ်၌ ပက်လက်လှန် လျှောင်းအိပ်ပြီး ခြေကိုဆန့်၊ လက်နှစ်ဖက်ကို ဘေး၌ချကာ မျက်နှာကို အပေါ်တည့်တည့် လှည့်၍ ရှုမှတ်ရ၏။

လျှောင်းနေခိုက် အသက်ရှူရှိုက်သည့်အခါ ဝမ်းဗိုက်ဖောင်းခြင်း ပိန်ခြင်းသည် အလွန်ထင်ရှား၏။ မထင်ရှားလျှင် ဝမ်းဗိုက်ပေါ်၌ လက်တင်ထားပါက ထင်ထင်ရှားရှားသိမြင်နိုင်၏။ မျက်စိမှိတ်လျက် ယခင်အတိုင်းပင် 'ဖောင်းတယ် ပိန်တယ်' ဟု ရှုမှတ်ရမည်။



ထိုသို့ ရှုမှတ်၍ အသင့်အတင့် ကြာညောင်းလာသည့်အခါ ဦးခေါင်း၏ နောက်စေ့နေရာ၌ သော်လည်းကောင်း၊ ခြေဖနောင့် နှစ်ဖက်၌သော်လည်းကောင်း၊ ကျောနှင့် တင်ပါးတို့၌လည်းကောင်း၊ နာကျင်သည့် ဝေဒနာ သို့မဟုတ် ပူလောင်သည့် ဝေဒနာ ထင်ပေါ်လာ၏။ ထိုအခါ အထက်၌ ဖော်ပြခဲ့သည့်အတိုင်း ဝေဒနာနုပဿနာကို ဆက်လက်ရှုပွားရပေမည်။

လျောင်း၍ ရှုမှတ်သည့်အခါ အနီးစပ်ဆုံး ရန်သူမှာ ငိုက်မျဉ်းခြင်းပင် ဖြစ်၏ လုံ့လအားစိုက်မှု နည်းလျှင် မကြာမီ အိပ်ပျော်သွားပေလိမ့်မည်။ တရားကောင်း၍ နိုးကြားနေသည့်အခါမျိုး၌ အိပ်ပျော်ခြင်းမရှိဘဲ နာရီများစွာ ရှုမှတ်နိုင်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၂ )

တော်ကူးဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က မဟာစည်ဆရာတော်ကြီးနှင့် တရားမေးဖြေ ပြုပုံများမှာ ဂန္ထဝင်မြောက် မှတ်တမ်းများ ဖြစ်သင့်ပါသည်။

## အတ္တဘယ်ပျောက်သွားသလဲ

မဟာစည်ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်အခါ တော်ကူးဆရာတော်သည် မိမိ၏ တူမတော်သူ မပညာသီအား ရန်ကုန်မြို့ ဦးနှောက်နှင့်အာရုံကြောအထူးကုဆေးရုံတွင် တင်ထားသည်ကို ကြည့်ရှုရန်အတွက် ရန်ကုန်သို့ ကြွလာပြီး မဟာစည်ရိပ်သာ၌ ယာယီသီတင်းသုံးတော်မူ၏။

ထိုအခါ ဥပုသ်ပြုသည့် နေ့ရက်နှင့် ကြုံကြိုက်သဖြင့် ကမ္မဋ္ဌာနာစရိယ ဆရာတော် အပါး ၇၀ ခန့်တို့သည် မဟာစည် ရိပ်သာသိမ်တော်၌ ဥပုသ်ပြုကြ၏။ ဥပုသ်ကိစ္စ ပြီးစီးသည့်အခါ မဟာစည်ဆရာတော်က -

'တော်ကူးဘုန်းကြီး ရှိသလား'ဟု မေးတော်မူ၏။

'ရှိပါတယ် ဘုရား'ဟု တော်ကူးဆရာတော်က ဖြေကြား၏။

'တော်ကူးဘုန်းကြီးက ထိုင်တဲ့ဣရိယာပုတ်နဲ့ ၂၄ နာရီ၊ ရပ်တဲ့ ဣရိယာပုတ်နဲ့ ၂၄ နာရီ၊ လျောင်းတဲ့ ဣရိယာပုတ်နဲ့ ၂၄ နာရီ၊ စင်္ကြံလျှောက်တာက အလိုရှိသလောက် ရှုမှတ်နိုင်ပါတယ်ဘုရား ဆရာတော် စစ်ဆေးချင်ရင် တပည့်တော် ယခု ရှုမှတ်ပြပါ့မယ် ဘုရား'

'အရှင်ဘုရား ဣရိယာပုတ်တစ်မျိုးနဲ့ ကြာကြာရှုမှတ်တဲ့နည်းကို ပြောပြပါ'

'တပည့်တော် ဖောင်းပိန်ကစပြီး ပေါ်တာအကုန် ရှုမှတ်တာပဲ ဘုရား၊ ဘာတစ်ခုမှ မလွတ်အောင်ရှုမှတ်ပါတယ်၊ ဝေဒနာပေါ်လာသမျှကို ကင်းစင်သွားအောင် ရှုမှတ်ပါတယ်၊ ငြိမ်းအေးချမ်းသာနေတဲ့အခါမှာလဲ ချမ်းသာတယ်၊ ချမ်းသာတယ်လို့ ရှုမှတ်ပါတယ်၊ တော်ချင်တဲ့စိတ်ပေါ်လာရင်လဲ တော်ချင်တယ်၊ တော်ချင်တယ်လို့ တော်ချင်တဲ့စိတ် ပျောက်သွားတဲ့အထိ ရှုမှတ်ပါတယ်၊ ဝေဒနာတွေကလဲကင်း၊ ချမ်းသာခြင်းနဲ့လဲပြည့်စုံ ဝိပဿနာအာရုံမှာလဲ တပည့်တော်က ပျော်မွေ့တော့ ဣရိယာ ပုတ်ရှည်ရှည်နဲ့ ရှုမှတ်နိုင်တာပဲ ဘုရားတပည့်တော် ရှုမှတ်တဲ့နည်းမှာ ချွတ်ချော်တာ မှားယွင်းတာရှိရင် ပြုပြင်ပေးပါ ဘုရား'

'အရှင်ဘုရား ရှုမှတ်တာ မှန်ပါတယ်၊ ဘယ်နေရာမှ ပြင်စရာမလိုဘူး အရှင်



ဘုရား ရှုမှတ်ပုံကို ဓာတ်ပုံရိုက်ပြီး မှတ်တမ်းတင်ခွင့်ပြုပါ။

ထူးချွန်သည့်တပည့်ကို ဆရာကချီးမြှင့်သည့်အနေဖြင့် သံဃာတော်ရှေ့မှောက်၌ တော်ကူးဆရာတော်ကို မဟာစည်ဆရာတော်က မေးမြန်းစစ်ဆေးခဲ့၏။ ထို့နောက် အင်္ဂလိပ် ဒကာတစ်ဦးက တော်ကူးဆရာတော် တရားရှုမှတ်ပုံကို ဓာတ်ပုံရိုက်ယူ၏။ ဓာတ်ပုံရိုက်ပြီးနောက် အင်္ဂလိပ်ဒကာက တော်ကူးဆရာတော် အနီးသို့ ချဉ်းကပ်ကာ မဝံ့မရဲနှင့် မေးခွန်းတစ်ခုမေး၏။

'ဆရာတော် ရုပ်နာမ်ချုပ်ပျောက်တဲ့အခါ အတ္တ ဘယ်ရောက်သွားသလဲ'
တော်ကူးဆရာတော်က ပြုံးပြုံးကြီး ဖြေကြားတော်မူ၏။

'ဒကာကြီး အတ္တက နဂိုကတည်းက မရှိဘူး၊ ဒါကြောင့် ဘယ်ကိုမှ ပျောက်မသွားဘူး၊ ဗုဒ္ဓမြတ်စွာရဲ့ တရားဝါဒက အနတ္တဝါဒပါ ဝိပဿနာတရား အားထုတ်တာကလဲ အတ္တအစွဲ - ငါစွဲ ပျောက်သွားအောင်လုပ်ရတဲ့ အလုပ်ပါပဲ၊ အတ္တစွဲပျောက်မှ ကိလေသာ အနှောင်အဖွဲ့က လွတ်မြောက်ပြီး ချမ်းသာအစစ်ကို ခံစားရတယ် ဒကာကြီး '

အင်္ဂလိပ်ဒကာက ခေါင်းတညိတ်ညိတ်နှင့် ခပ်မဆိတ် နားထောင်နေ၏။ အတ္တအစွဲခိုင်မြဲနေသူအား ဤမျှ ရှင်းပြရုံမျှဖြင့် သူကျေနပ်နိုင်မည် မဟုတ်ပါချေ။ ကိုယ်တိုင်လုပ်၍ ကိုယ်တိုင်မြင်မှ ယုံကြည်နိုင်မည်ဖြစ်သတည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၉၈-၁၉၉ )

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘဝဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီဟိပုံနှိပ်တိုက်၊)

## ပရိနိဗ္ဗာန်ပြုသောနှစ်

၁၉၈၇ အေဒီ ၁၉၈၇ ခု ဧပြီလ ၁၃ ရက်၊ တနင်္လာနေ့ (၁၃၄၈ ခု၊ တန်ခူးလပြည့်နေ့) သင်္ကြန်အကြတ်နေ့ ညဉ့် ၇ နာရီ ၄၈ မိနစ်တွင် ပရိနိဗ္ဗာန်ပြုတော်မူပါသည်။ ပရိနိဗ္ဗာန်ပြုတော်မူသည့် အချိန်၌ သက်တော် ၉၇ နှစ်ရှိပြီး၊ ဝါတော် ၄၂ ဝါရှိပါသည်။

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘဝဆည်းဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီဟိပုံနှိပ်တိုက်၊ စာ ၈၀)ကို ဆက်လက်ဖတ်ရှုကြပါ။

ရဟန္တာဟုကျော်ကြားတော်မူသော ယနေ့တိုင်ရုပ်ကလာပ်တော်တည်ရှိနေသည့်

# ဗန်းမောက်ရဟန္တာ အရညဝါသီ
# ပှေ့သုက္ခဆရာတော်ကြီး

**အေဒီ ၁၈၉၂ - ၁၉၇၈ ( ၁၂၅၃ - ၁၃၃၉ )**





ဝေ့သုက္ခိဆရာတော်ကြီး အောင်မြေနေရာတွင် ရွှေကြောကြီးရှိကြောင်း သိရသဖြင့် ယခုအခါ ရွှေရှာဖွေထုတ်လုပ်သူများဖြင့် စည်ကားလျက်ရှိကြောင်း သိရပါသည်။

၁၉၇၈ ရဟန္တာဟု ကျော်ကြားတော်မူသော ဝေ့သုက္ခိ ဆရာတော်ကြီးသည် အေဒီ ၁၉၇၈ ခု၊ ဖေဖော်ဝါရီလ ၁၃ ရက် (၁၃၃၉ ခုနှစ် တပို့တွဲလဆန်း ၆ ရက်) တနင်္လာနေ့ ညနေ ၆ နာရီ ၄၅ မိနစ်အချိန်တွင် ဘဝနတ်ထံ ပျံလွန်ခဲ့ကြောင်း သိရှိရပါသည်။ ဆရာတော်ကြီး၏ ဘွဲ့တော်အမည် အပြည့်အစုံမှာ ဘဒ္ဒန္တကဝိန္ဒမဟာထေရ်ဟူ၍ ဖြစ်ပါသည်။ သို့သော်လည်း ဝေ့သုက္ခိ ဆရာတော်ဘုရားကြီးဟူ၍သာ အများက သိရှိကြပါသည်။

ဝေ့သုက္ခိ ဆရာတော်ဘုရားကြီးသည် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့သည်မှာ ကြာပြီဖြစ်သော်လည်း ယနေ့ထက်တိုင်အောင် ပုပ်သိုးဆွေးမြည့်ခြင်းမရှိဘဲ တည်ရှိနေခဲ့ပါသည်ဟု သိရပါသည်။

(က) ပျံလွန်တော်မူခဲ့သည်မှာ နှစ်ပေါင်း ၃၀ ကျော်ပြီဖြစ်သော်လည်း ခြေတော် လက်တော်များ ကွေးဆန့်၍ ရခြင်းဟူသော အံ့ဖွယ်တစ်ပါး။

(ခ) မည်သည့် ဆေးဝါးမျှ မကူဘဲ ပုပ်သိုးဆွေးမြည့်ခြင်း မရှိခြင်းလည်းကောင်း ရုပ်ကလာပ်တော်၏အောက်၌ အဝတ်အထည်များ အထပ်များစွာ ခင်းထားသော်လည်း ထိုအထပ်များကိုကျော်လွန်၍ အောက်ဆုံးသင်္ကန်းတော်၌ အရိုးစုသဏ္ဌာန် ပုံရိပ်တော်သည် အိတ်စရေး ဓာတ်မှန်များ ရိုက်ထားသကဲ့သို့ ထင်ထင်ရှားရှားကြီး မြင်တွေ့နေရခြင်းဟူသော အံ့ဖွယ်တစ်ပါး ဤသို့သော အံ့ဖွယ်များဖြင့် များစွာထူးကဲလှကြောင်း အံ့သြကြည်ညိုစွာ ယနေ့တိုင်ပြောဆိုလျက်ရှိကြပါသည်။

(ကျမ်းကိုး၊ စံထွန်းသ/:၊ သင်္ကန်းပေါ်တွင် အရိုးစုပုံ ပေါ်သည့် ဝေ့သုက္ခိဆရာတော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၄ ခု၊ ဒ-မှတ် ၂၁၆ ၊ စာ ၂၇ )

ဝေ့သုက္ခိ ဆရာတော်ကြီး၏ ရုပ်ကလာပ်တည်ရှိရာ ဝေ့သုက္ခိကျေးရွာမှာ ဗန်းမောက်မြို့၏ မြောက်ဘက် ၂၅ မိုင်ခန့် အကွာတွင် တည်ရှိပေသည်။ ရုပ်ကလာပ်တော်မှာ ယခုအခါ ရွှေတွေပိန်းအောင် ချထားသည်ကို ဖူးတွေ့ရပါသည်။ အောက်တွင် ကမ္ပည်းစာတန်းရေးထိုးထားသည်ကိုလည်း တွေ့ရပါသည်။ စာတန်းမှာ -

'မန်လောင်တိုက် ပေပင်အုပ်စု ဝေ့သုက္ခိရွာ ဧကစာရီ အရညဝါသီ ဝေ့သုက္ခိ မဟာထေရ်မြတ်ကြီး' ဟူ၍ဖြစ်ပါသည်။

၁၉၇၈ ဆရာတော်ကြီး၏ ထူးခြားချက်များနှင့်စပ်လျဉ်း၍ မှတ်တမ်းတင်ထားမှုများ များစွာရှိပါသည်။ ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို ၁၃၄၀ ပြည့် ကဆုန်လပြည့်နေ့ (၂၁ မေလ ၁၉၇၈) တနင်္ဂနွေနေ့တွင် ရွှေခေါင်းမှ မှန်ခေါင်းသို့ ပြောင်းရွှေ့ပူဇော်ထားသည်ဟူ၍ မှတ်တမ်းရေးထားသည်ဟု သိရှိရပါသည်။

ဆရာတော်ကြီး၏ ထူးခြားချက်များနှင့်စပ်လျဉ်း၍ ဂူဗိမာန်အတွင်း၌ ကျောက်စာတစ်ချပ်ရေးထိုးထားကြောင်းလည်း သိရှိရပါသည်။ ထူးခြားချက်အချို့ကို ဖော်ပြရလျှင် ပိုမိုကြည်ညိုဖွယ်ရာ ဖြစ်မည်ထင်၍ ကုသိုလ်ပွားနိုင်ရန် ကူးယူဖော်ပြပါမည်။



(၁) တောထွက်ချိန်မှစ၍ အဖော်မပါ တစ်ပါးတည်းသာ သီတင်းသုံးတော်မူခြင်း၊

(၂) ပစ္စည်း (၄)ရပ်နှင့်စပ်၍ အကောင်းအမြတ် မရွေးချယ်၊ ရသမျှဖြင့်သာ ရောင့်ရဲတော်မူခြင်း၊

(၃) လာဘ်လာဘ ပူဇော်သက္ကာယ အကျော်အစော မမက်မောခြင်း၊

(၄) ပစ္စည်းသိုမှီး သိမ်းဆည်းမှု လုံးဝမရှိခြင်း၊

(၅) ဣရိယာပုထ် အပြောင်းအလွဲမြန်ဆန်သွက်လက်ခြင်း၊

(၆) ညအချိန်တွင် မီးရောင်နှင့် နေလေ့မရှိခြင်း၊

(၇) မိမိကြွလိုရာသို့ အငဲ့အကွက်မရှိ အတွယ်အတာမရှိ ကြွတော်မူခြင်း၊

(၈) ရှင်လူအများ မိမိထံမှောက် လာရောက်သည်ကို မနှစ်သက်၍ လူသံကြားလျှင် ရှောင်တိမ်းနေတတ်ခြင်း၊

(၉) ရံခါ ဆရာတော်ကျောင်းမှ အလွန်တောက်ပသော အလင်းရောင်များတွေ့ရပြီး အမွှေးနံ့များ ရှူရှိုက်ရခြင်း၊

(၁၀) ရံခါ ဆရာတော်အနီး၌ ကျောင်းသားလူငယ်တစ်ဦး ဝတ်ပြုနေသည်ကို မြင်ရခြင်း၊

(၁၁) သူပုန် ဓားပြ မြွေ ကျား စသည်တို့ကို ကြောက်ရိပ်မထင်ခြင်း၊

(၁၂) သူတစ်ပါး၏ စိတ်အကြံတော်ကိုသိသော အမူအရာရှိတော်မူခြင်း၊

(၁၃) မိမိအား လှူဒါန်းထားသော ပစ္စည်းများကို လိုချင်သူယူသွားလျှင်လည်း ဘာမျှမပြောမဆိုခြင်း၊

(၁၄) မိမိထံမှောက် ရောက်လာသော ဒကာ ဒကာမများအားလည်း ဆုပေး၍ငါးပါးသီလများကိုသာပေး၍ ပြန်လွှတ်တတ်ခြင်း၊

(၁၅) ပရိတ်ရေတောင်းလျှင်လည်း ပရိတ်ရွတ်ပေးတတ်ခြင်း၊

(၁၆) ဆရာတော်ကို ဖူးမြော်လာသူများမှာ ဘေးအန္တရာယ်ကင်း၍ စီးပွားချမ်းသာတိုးတက်ခြင်း၊

(၁၇) ရုပ်ကလာပ်တော် ယခုချိန်ထိ ပုပ်သိုး ဆွေးမြည့်မှုမရှိခြင်း၊

(၁၈) ရံခါ ညဉ့်အချိန် ရုပ်ကလာပ်တော်ထားရာ ဂူဗိမာန်မှ ဓာတ်မီးရောင်လို အလင်းရောင်များ ထွက်ခြင်း၊

(၁၉) ရုပ်ကလာပ်တော် အောက်ဆုံးအခင်း၌ ဓာတ်မှန်ရိုက်ထားသလို ပုံတော်ထင်နေခြင်း၊

(၂၀) ဆရာတော်နှင့် စပ်လျဉ်းသော ပူဇော်ပွဲလုပ်တိုင်း ရှင်, လူ ပရိသတ်စည်ကားပြီးခိုက်ရန် ဘေးအန္တရာယ် ကင်းရှင်းခြင်း မိုးမရွာ နေမပူ ရာသီဥတု မျှတနေခြင်း၊

(၂၁) ပူဇော်ပွဲပြီးတိုင်း ပွဲခင်းရှိ အမှိုက်များကို လေပွေတိုက်ယူရှင်းလင်းပေးခြင်းတို့သည် ဗန်းမောက်မြို့နယ် ရဟန္တာဟု ကျော်ကြားသော အရညဝါသီ ဝေ့သုက္ခ ဆရာတော်ကြီးနှင့်စပ်လျဉ်းသော ထူးခြားချက်အချို့ဖြစ်ပါသည်။

(ကျမ်းကိုး၊ ဝေ့သုက္ခ ဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ကျောက်စာ ၂ ချပ်ကိုလည်း ၁၃၄၄ ခု တပေါင်းတန်ခူး (ဧပြီလ ၁၉၈၃) ခုနှစ်က ရေးထိုးထားကြောင်း သိရှိရပါသည်။ ရှေးရှေး



အခါ ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ် ၁၃၃၃ ခု (၁၉၇၁) ကာလကပင်လျှင် စာမျက်နှာ ၂၄ မျက်နှာရှိ ထေရုပ္ပတ္တိ စာအုပ်ငယ်တစ်အုပ် ထွက်ရှိဖူးလေသည်။ ကျမ်းပြု ဆရာမှာ ဆားမှော်မြို့ အောင်မင်္ဂလာဆရာတော်ဦးသုဇာတဖြစ်၏။ ၎င်းအပြင် တည်တော ဆရာတော် ရွှေထီးဂ္ဂနွရာကလည်း ဓမ္မဗျူဟာစာစောင်၊ ၁၃၃၆ တန်ဆောင်မုန်းလ၊ (၂၈နိုဝင်ဘာလ ၁၉၇၄) ခုနှစ်တွင် ဖော်ပြခဲ့ဖူးပါသည်။ ၎င်းအပြင် ၁၃၄၀ ပြည့်နှစ် ( ၁၉၇၈ )တွင်လည်း ဝေ့သုက္ခီ ဈာပနမန်လောင်တိုက်နယ် ဆရာတော်များက ထေရုပ္ပတ္တိ စာစောင် ထုတ်ဝေခဲ့ပြန်၏။ စာမျက်နှာ ၅၂ မျက်နှာရှိ၏။ ထိုအကြောင်းအရာတို့ကို ဓမ္မာစရိယဦးဌေးလှိုင်၏ ဓမ္မဒူတ သာသနာ့ဝံသကထာ စာမျက်နှာ ၂၉၄ - ၃၁၀ တို့တွင် ဇေ့စုံစွာဖတ်ရှုနိုင်ပါသည်။ ထိုအချက်တို့ကို ကုသိုလ်လက်ဆင့်ကမ်းရန်အလို့ငှာ ပြန်လည် တင်ပြပါသည်။ ထီးချိုင့်မြို့ တည်တောဆရာတော် ဘဒ္ဒန္တဒေဝိန္ဒမထေရ်၏ လက်ရေးစာမူကို အမှတ်မထင် ဖတ်ရှုရ၍ အချက်အလက်များ များစွာရရှိကြောင်း ဆရာအောင်ဇ LL.B ကလည်း ၁၉၉၉ ခု ဇူလိုင်လထုတ် နက္ခတ္တရောင်ခြည်မဂ္ဂဇင်း စာမျက်နှာ ၄၁ တွင် ဖော်ပြခဲ့ပါသည်)

ဝေ့သုက္ခီရွာဟူသောရွာမှာ စစ်ကိုင်းတိုင်းဒေသကြီး ကသာခရိုင် ဗန်းမောက်မြို့ မန်လောင်တိုက်နယ် အပါအဝင် ရှမ်းရွာတစ်ရွာ၏ အမည်ဖြစ်ကြောင်းသိရှိရပါသည်။ ဆရာတော် သည်လည်း ရှမ်းတိုင်းရင်းသားပင် ဖြစ်ကြောင်း သိရပါသည်။

## ဇာတိ

ဆရာတော်၏ ဇာတိရွာမှာ ဗန်းမောက်မြို့နယ် မန်စီကြီးတိုက် မန်ကျည်းကုန်းရွာ ဖြစ်၏။ ခမည်းတော်မှာ ကျောင်းဒကာကြီး ဦးလိပ်ဆုဖြစ်၏။ မယ်တော်မှာ ဒေါ်မင်းနေ ဖြစ်၏။ ဆရာတော်မှာ စတုတ္ထသားရတနာဖြစ်၏။ ငယ်မည်မှာ မောင်စံချုပ်ဖြစ်၏။

## ဖွားသက္ကရာဇ်

၁၈၉၁ ဖွားသက္ကရာဇ်မှာ ၁၂၅၃ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၁၅ ရက် (၃၀ နိုဝင်ဘာ ၁၈၉၁) တနင်္လာနေ့ဖြစ်၏။ အသက် ၁၄ နှစ်အရွယ် ရှင်သာမဏေပြုသောအခါ ဘွဲ့တော်မှာ ရှင်ကဝိန္ဒဟူ၍ဖြစ်၏။

## မန်ကျည်းပင်ကြီးသည် အချဉ်သီးမှ အချိုသီးသို့ ပြောင်း၍ သီးခြင်း

ဆရာတော်လျောင်းလျာ မောင်စံချုပ်ကို ဖွားမြင်သည့်နှစ်တွင် အိမ်အနားက မန်ကျည်းပင်ကြီးမှာ အမြဲထာဝစဉ် အချဉ်သီးများ သီးနေရာမှ ထိုနှစ်တွင် ထူးထူးခြားခြား သက်သေပြ၍ အချိုသီးများ သီးခဲ့သည်ဟုဆိုပါသည်။

၁၈၉၁ အချိန်တန် အရွယ်ရောက်သောအခါ မန်ကျည်းကုန်း ဆရာတော် ဦးသောမထံ၌ ကျောင်းအပ်ကြောင်း အသက် ၁၄ နှစ်သားအရွယ်တွင် မန်စီတိုက်နယ် မန်ဝိန်းဆရာ တော် ဦးနန္ဒိသာရထံ၌ ရှင်သာမဏေ ပြုခဲ့ကြောင်း သိရပါသည်။ ၎င်းနောက် နောင်ပတ်ကျောင်း ဆရာတော်ကြီး ဦးနေမိန္ဒထံမှ ပရိယတ္တိစာပေများ သင်ကြားခဲ့ ကြောင်းသိရပါသည်။ နောင်ပတ်ကျောင်းဆရာတော်သည် မန်စီ, မန်လောင် တိုက်နှစ်ခု၏ ဂိုဏ်းချုပ်ဖြစ်တော်မူကြောင်းသိရပါသည်။



၁၉၁၀ အေဒီ ၁၉၁၀ ခု (၁၂၇၂ ခုနှစ်)တွင် ဝေ့သုက္ခိဆရာတော်ကြီး ဦးတေဇောက ဥပဇ္ဈယ် အဖြစ် ချီးမြှောက်တော်မူလျက် နန်းလမ်းချောင်း ရေသိမ်၌ ရဟန်းဖြစ်တော်မူကြောင်း သိရပါသည်။ ရဟန်းဒကာများမှာ ခမည်းတော်နှင့် မယ်တော်တို့ပင်ဖြစ်ကြောင်း သိရပါသည်။

၁၉၁၁ အေဒီ ၁၉၁၁ မေလ ၈ ခု (၁၂၇၃ ခုနှစ် ကဆုန်လဆန်း ၁၁ ရက်) အင်္ဂါနေ့တွင် မန်စီကြီးရွာနေ ဟိန္ဒူကုလားလူမျိုး ဦးမိကျန် ဒေါ်မယ်ညွန့်တို့၏ ပစ္စယာနုဂ္ဂဟကို ခံယူလျက် မူလဝေ့သုက္ခိ ဆရာတော်ကြီးကိုပင် ဥပဇ္ဈယ်ပြုကာ ပေပင်ချောင်း ရေသိမ်၌ ဒုတိယအကြိမ် ကံထပ်တော်မူပြန်သည်ဟု သိရပါသည်။

၁၉၂၃ အေဒီ ၁၉၂၃ ခု (၁၂၈၅ ခုနှစ်)တွင် ဝေ့သုက္ခိရွာ ဒကာ ဒကာမတို့၏ ပင့်လျှောက်ချက် အရ သရက်ကုန်းကျောင်းမှ ဝေ့သုက္ခိ ရွာကျောင်းသို့ ရွှေ့ပြောင်း၍ ကျောင်းထိုင်အဖြစ် သီတင်းသုံးတော်မူခဲ့ပြန်လေသည်။

၁၉၂၃-၁၉၄၂ ဆရာတော်ကြီးသည် ထိုရွာကျောင်း၌ပင်လျှင် ၁၂၈၅ - နှစ်မှစ၍ ၁၃၀၄ နှစ်အထိ (၁၉၂၃-၁၉၄၂) အထိ ၁၉ နှစ်တိုင်တိုင် ဂါမဝါသီအဖြစ် သီတင်းသုံးကာ တရားဓမ္မ ဟောကြားခြင်း ဘာသာစာပေသင်ကြားပေးခြင်းတို့ဖြင့် သာသနာပြုခဲ့ကြောင်း သိရှိရ ပါသည်။

၁၉၄၂ ဆရာတော်ကြီးသည် အေဒီ ၁၉၄၂ ခု (၁၃၀၄ ခုနှစ်)တွင် သပိတ်တစ်လုံး သင်္ကန်း ၃ ထည်ဖြင့် တောထွက်တော်မူသည်။

၁၉၆၇ အေဒီ ၁၉၆၇ ခု (၁၃၂၉ ခုနှစ်)တွင် ဝေ့သုက္ခိရွာသို့ ပြန်လည်ကြွရောက်လာသည်။

၁၉၉၇ အေဒီ ၁၉၉၇ ခု၊ (၁၃၃၉ ခု တပို့တွဲလဆန်း) တနင်္လာနေ့ မွေးနေ့ ညနေ ၆ နာရီတွင် ခန္ဓာဝန်ချတော်မူသည်။

၁၉၇၈ အေဒီ ၁၉၉၈ ခု၊ မေလ ၂၁ ရက်၊ တနင်္ဂနွေနေ့၊ (၁၃၄၀ ပြည့်နှစ် ကဆုန်လပြည့်နေ့) တွင် ရွှေခေါင်းမှ မှန်ခေါင်းသို့ပင့်ဆောင်၍ ယနေ့တိုင် ပူဇော်ထားရှိသည်။

(ကျမ်းကိုး။ စံထွန်းသာ၊ သင်္ကန်းပေါ်တွင် အရိုးစုပုံပေါ်သည့် ဝေ့သုက္ခိဆရာတော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၄ ခု၊ အမှတ် ၂၁၆ ၊ စာ ၂၇ ) (ကျမ်းကိုး။ အောင်ဇေ၊ ဝေ့သုက္ခိအောင်မြေသို့ နက္ခတ္တရောင်ခြည်၊ ၁၉၉၉ ခု၊ ဇူလိုင်လ ၊ အမှတ် ၁၅၆၊ စာ ၄၁- ၄၆)

**တောထဲမှာ ၂၅ နှစ်တာ ကေစာ**

၁၉၄၂-၁၉၆၇ ဆရာတော်ကြီးသည် ၁၃၀၄ ခုနှစ်မှစ၍ ၁၃၂၉ ခုနှစ် ( ၁၉၄၂ - ၁၉၆၇ ) အထိ နှစ်ပေါင်း ၂၅ နှစ် လုံးလုံး တောထဲ၌သာ ကေစာ ကျင့်သုံးကြောင်း သိရပါသည်။ ထိုအနီးအနားဝန်းကျင်ရှိ ရေရှင်ကုန်း၊ ဝေ့ကုန်းတောင်၊ ပန်းထိမ်ကုန်း၊ လေးတောင် စသည်ဖြင့် နေရာရွှေ့ပြောင်း သီတင်းသုံးခဲ့ကြောင်းသိရှိရပါသည်။ ထို့ကြောင့်ပင်လျှင် ဆရာတော်ကြီးသည် သက်တော် ၅၀ ကျော်မှစ၍ သက်တော် ၇၆ နှစ်အထိ နှစ်ပေါင်း ၂၅ နှစ်လုံးလုံး တောရဆောက်တည်ခဲ့ကြောင်းသိရှိရပါသည်။

(ကျမ်းကိုး။ စံထွန်းသာ၊ စာ ၂၆ - ၂၇)



## လွတ်လပ်ရေးခေတ်တွင် တပ်နီကွန်မြူနစ်များ၏ လက်ချက်

ဆရာတော်သည် တောၣ်မွေ့လျော်သော်လည်း မြန်မာပြည်ကြီး လွတ်လပ်ရေး ရပြန်သောအခါ တောၣ်နေ၍ မရနိုင်သော အကြောင်းတစ်ခုပေါ်လာခဲ့ကြောင်းသိရပါသည်။

၁၉၆၇ ဆရာတော်တောရဆောက်တည်သော ဗန်းမောက်နယ် တစ်ဝိုက်တွင် ဒုတိယ ကမ္ဘာစစ်ကြီးပြီး၍ လွတ်လပ်ရေးကာလသို့ပင် ရောက်လာသော်လည်း သူပုန်သူကန် ဘေးကြောင့် ၁၃၂၉ ( ၁၉၆၇ ) ခုနှစ်တိုင်အောင် အေးချမ်းစွာ နေရသည်မရှိလှ။

### သေနတ်မီးမကျူး

တပ်နီကွန်မြူနစ်များ တစ်တောဝင်တစ်တောထွက် လှုပ်ရှားသောင်းကျန်းနေကြရာ တစ်ခုသောညတွင် တောင်ပေါ်၌ စင်္ကြံကြွနေသော ဆရာတော်အား ရန်သူထင်ကာ သေနတ်ဖြင့်ဝိုင်း၍ပစ်ကြ၏ ဟုဆိုပါသည်။ အကြိမ်ကြိမ်ပစ်သော်လည်း သေနတ် မီးမကျူးဘဲ ရှိနေမှ ဆရာတော်မှန်းသိကာ လေးစားအံ့သြကြည်ညိုသွားကြသည် ဟုဆိုပါသည်။ ထိုနှစ်မှာပင် အစိုးရတပ်နှင့် သူပုန်တို့ တိုက်ပွဲဖြစ်ပြန်ရာ ဒကာမများက ရွာကျောင်းသို့ ပင့်ထားကြရ၏။ သေနတ်မီးမကျူးသည်မှာလည်း အံ့ဖွယ်တစ်ပါးပင် ဖြစ်သည်ဟုဆိုကြပါသည်။

ဆရာတော်သည် ရွာကျောင်း၌နေသော်လည်း အမြဲနေ ဦးပဉ္စင်း ကိုရင် ကပ္ပိယ အဖော်မထားဘဲ တစ်ပါးတည်းနေတော်မူ၏။ ဆွမ်းကပ်သူများကိုပင် ဆွမ်းကပ်ချိန်သာလာ၍ ဆွမ်းကပ်စေသည်။ဆွမ်းကပ် ပြီးလျှင်ပြီးခြင်း အပြန်ခိုင်းသည်။

ပေ ၅၀ - ၃၀ ခန့်ရှိသော ကျောင်းကြီးတစ်ကျောင်းရှိသော်လည်း ထိုကျောင်းကြီး၌မနေဘဲ ကျောင်းဝင်းအတွင်း ကျောင်းကြီးနှင့် ကိုက်နှစ်ဆယ်ခန့်အကွာရှိ ကမ္မဋ္ဌာန်းကျောင်းကလေး၌သာ အနေ များသည်။ ယခင် တောရကျောင်းဟောင်းများသို့လည်း သွားရောက်ကာ မကြာခဏ နေသန့်တော်မူလေ့ရှိ ကြောင်းသိရပါသည်။

ရဟန္တာဟု တစ်နေ့တစ်ခြား ကျော်ကြားလာ၍ ရပ်ဝေးရပ်နီးမှ လာရောက်ဖူးမြော်ကြသူ များကို ၅ ပါးသီလပေး၍ တရားအနည်းငယ်ဟောကာ ပြန်လွှတ်လေ့ရှိလေသည်ဟု သိရပါသည်။

တစ်နေ့အခါ ဦးသာဇံနှင့် ဦးမောင်ခိုင်တို့နှစ်ဦး ကောက်ဦးဆွမ်း အလှူ သွားကြရာ ဆရာတော်အနီး၌ ချဉ်းကပ်ဝတ်ပြုနေသော အလွန်သန့်ရှင်းရည်မွန်သည့် ကျောင်းသားသူငယ်တစ်ဦးကိုတွေ့ရ၏ဟု ဆိုပါသည်။ ဦးသာဇံတို့နှစ်ဦး နှစ်နာရီ အကြာ ကျောင်း၌နေပြီး ပြန်လာကြရာ လမ်းရောက်လျှင် ဦးသာဇံက- ဦးမောင်ခိုင် ဆရာတော်နားက သူငယ်ချောချောလေးက ဘယ်သူ့သားလဲ၊ ရွာထဲမှာ ဒီလိုကလေး ရှိသလား၊ ဆရာတော်ကို လျှောက်ချင်တာ မလျှောက်ရဲလို့ဟု ဆိုရာ၊ ဦးမောင်ခိုင်က ကိုသာဇံနှယ် ကြံကြီးစည်ရာ ဘယ်ကလာ ကျောင်းသား ကိုရင်လက်ခံလိမ့်မတုံး၊ ကျုပ်ပ်မတွေ့ပါဘူးဟု ငြင်းကာ အချင်းချင်း အခြေအတင် ပြောဆိုကြလေ၏

မြင်သူမှာလည်း အမှန်ဖြစ်၍ မမြင်သူမှာလည်း အမှန်ပင်ဖြစ်၏ နတ်ဖြစ်စေ နဂါးဖြစ်စေ လူယောင်ဆောင်လျက် ဝတ်ပြုနေကျဖြစ်လိမ့်မည်ဟု



အောက်မေ့ကြရသည်။ ဤသည်လည်း အံ့ဖွယ်တစ်ပါးဖြစ်သည်ဟူ၍ သိရပါသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယဦးဌေးလှိုင်၊ ဓမ္မဒူတ သာသနာ့ဝံသကထာ၊ စာ ၂၉၄ - ၃၁၀)

## သက်တော် ၅၀ ကျော်မှ ဂျပန်ဝင်စ ကာလမှာ တောဝင်ခြင်း

၁၉၄၂ ဆရာတော်ကြီး၏ တောရဆောက်တည်ခြင်းနှင့်စပ်လျဉ်း၍ ဂျပန်ခေတ်သည် မေ့မရနိုင်သော ကာလများဖြစ်လေသည်။ အဘယ်ကြောင့်ဆိုသော် အေဒီ ၁၉၄၂ ဇွန်၊ ဇူလိုင်(၁၃၀၄ ဝါဆိုဦး) ကာလများသည် ဂျပန်ဝင်စကာလဖြစ်သဖြင့် ထိုကာလသည်ပင် ဆရာတော်အား တောကျင့်တောင်ကျင့် ကျင့်ရန် တိုက်တွန်းနှိုးဆော်တွန်းပို့လိုက်သကဲ့သို့ ရှိပေတော့သည်။

ထိုအချိန်တွင် အင်္ဂလိပ်များဆုတ်ခွာ၍ ဂျပန်တပ်များ ဝင်သောကာလဖြစ်၏။ ထိုကာလတွင် ဂျပန်တပ်များသည် ဝေ့သုက္ခိကျောင်း၌ပင်လျှင် တပ်ချကာ နေထိုင်ခဲ့ကြပေသည်။ ထိုအချိန်တွင် ဆရာတော်ကြီးသည် သက်တော် ၅၀ ကျော်ပြီဖြစ်သည်။

## ဂျပန်များက ထင်းခွေ ရေခပ်ခိုင်းခြင်း ဒဏ်မခံနိုင်၍

ဂျပန်တပ်သားများသည် ဆရာတော်ကြီးကို ထင်းခွေခိုင်း၏။ ရေခပ်ခိုင်း၏။ မီးမွှေးခိုင်း၏။ ကြက်၊ ဘဲများ အမွေးနုတ်ခိုင်း၏။ ရိုင်းစိုင်းစွာ ခိုင်းစေကြသည်ဖြစ်၍ ဆရာတော်ကြီးသည် မည်သူ့ကိုမျှ အသိမပေးဘဲ ရွာကျောင်းကိုစွန့်ခွာကာ တောထွက် တရားအားထုတ်ခဲ့ခြင်း ဖြစ်ပေသည်။ ထိုအခါ ဆရာတော်သည် ဝါတော် ၃၁ ဝါ ရနေလေပြီ။

ဝေ့သုက္ခိရွာမှ တပည့်ဒကာများလည်း ဆရာတော်ကျောင်းမှာ မရှိတော့သဖြင့် တောတောင်အနှံ့ လိုက်ရှာကြရာ ပန်းထိမ်ကုန်းအနီး ထောက်ရှာပင်ကြီးအောက်၌ ဖူးတွေ့ကြရလေသည်။ ရွာသို့ ပြန်ပင့်သော်လည်း မကြွရောက်တော့သဖြင့် ထိုနေရာမှာပင် ယာယီတဲကျောင်း ဆောက်လုပ်ပေးခဲ့ကြရလေသည်။

၁၉၄၄ အေဒီ ၁၉၄၄ ခု (၁၃၀၆ ခုနှစ်)တွင် ဂျပန်တပ်များနှင့် မဟာမိတ်တပ်များ စစ်ပွဲကြီးကျယ်စွာ ဖြစ်ကြသဖြင့် ဆရာတော်လည်း မူလနေရာမှရွှေ့၍ ပန်းထိမ်ကုန်းသို့ သွားရောက်သီတင်းသုံးရပြန်လေသည်။

စစ်ဘေးဒဏ်ကို ရှောင်ရှားရင်း ပုန်းရင်းမှ ဝေ့သုက္ခိရွာသား တပည့်ဒကာတို့လည်း ဆရာတော်ကို လိုက်ရှာကြပြန်ရာ ပန်းထိမ်ကုန်း ဘန့်ပွေးပင်ရင်း၌ ထိုင်လျက် သီတင်းသုံးနေသည်ကို ဖူးတွေ့ကြရသည်။

## ဆွမ်းကပ်မည့်သူ မရှိ၍

ထိုကာလတွင် ဆရာတော်အား ဆွမ်းကပ်ခဲ့သူမရှိပေ။ ထူးခြားမှုတစ်ခုမှာ ဆရာတော်သီတင်းသုံးသည့်နေရာနှင့် မနီးမဝေး၌ ဆီးဖြူသီး ဖန်းခါသီးများ မြေပေါ်တွင် စုပုံထားသည်ကို ဟိုတစ်ပုံသည်တစ်ပုံ တွေ့ကြရလေသည်ဟုဆိုပါသည်။

ကျေးရွာမှ တပည့် ဒကာများ အလှည့်ကျ တာဝန်ခွဲ၍ ဆွမ်းပို့စေသောအခါ ဆရာတော်မှ ထိုဆွမ်းကို ဘုန်းပေးခြင်းမပြုပေ။ စေတနာ သဒ္ဓါအလျောက်ပို့လာသော ဆွမ်းကိုသာလျှင် ဘုန်းပေးတော်မူသည်။



**ဆင်ဖြူတော်လာပူးခြင်း၊ ကျားများလာ၍ဖူးမြော်ခြင်း မြွေလာ၍ဖူးမြော်ခြင်း**

တပည့်ဒကာများမှ ကျောင်းများဆောက်လုပ်လှူဒါန်းကြရာ ပန်းထိမ်ကုန်း၌ ကျောင်း(၃)ဆောင် ရှိလာခဲ့သည်။ ဆရာတော် တရားအားထုတ်နေရာသို့ ဆင်ဖြူတော်လာ၏။ ကျားကြီးလည်း လာတတ်၏။ မြွေကြီးများပင် လာရောက်ကြည်ညိုဖူးမြော်ခဲ့ကြသည်ဟု သတင်းကျော်ကြားခဲ့လေသည်။

ဆရာတော်မှာ ပန်းထိမ်ကုန်းတောရ၌လည်း အမြဲသီတင်းသုံးခြင်းမရှိပေ။ (၆)နေရာခန့် ရွှေ့ပြောင်းသီတင်းသုံးခဲ့၏။ သို့ရာတွင် ဤပန်းထိမ်ကုန်းတောရမှာ အနေအကြာဆုံး ဖြစ်ခဲ့ပေသည်။

၁၉၄၈ အေဒီ ၁၉၄၈ ခု (၁၃၀၉ ခုနှစ်)မှစ၍ ဝေ့သုက္ခိ ဒေသမှာ အလံဖြူကွန်မြူနစ် သောင်းကျန်းသူများ စိုးမိုးခဲ့သည်။ ပန်းထိမ်ကုန်းတောရ၌ သီတင်းသုံးလျက်ရှိသော ဝေ့သုက္ခိဆရာတော်ဘုရားကြီးအား အနယ်နယ်အရပ်ရပ်မှ လူ ပရိသတ်များစွာ လာရောက်ဖူးမြော်ကြသဖြင့် အစိုးရဘက်တော်သား သူလျှို ဒလန်များ အန္တရာယ်ကိုမျှော်တွေးကာ သောင်းကျန်းသူတို့ကဆရာတော်အား ပန်းထိမ်ကုန်း တောရမှ ရွှေ့ပြောင်းသွားရန် နှင်ထုတ်ခြင်း၊ အမျိုးမျိုးနှောင့်ယှက်ခြင်းပြုကြလေသည်။

**ကိုယ်ပျောက်သလော**

ဆရာတော်မှာ အကြောက်အရွံ့မရှိ ဆက်လက်သီတင်းသုံးခဲ့လေသည်။ ဆရာတော်၏ ထူးခြားချက်မှာ ဘေးအန္တရာယ်ပြုရန် လာရောက်ကြသော ကွန်မြူနစ်များ ရှာဖွေသော်လည်း မတွေ့မမြင်ကြရခြင်းဖြစ်လေသည်။

**ဆွမ်းမစားဘဲ ဘာမှမဖြစ်**

တောတောင်ထဲ၌ တစ်ပါးတည်း သီတင်းသုံး၏။ ဆွမ်းလည်းမခံဘဲ တရားအားထုတ်၏။ ဆွမ်းမစားရသော်လည်း မည်သို့မျှ မဖြစ်ပေဟုဆို၏။

၁၉၆၇ အေဒီ ၁၉၆၇ ခု (၁၃၂၉ ) ခုနှစ်၌ ကွန်မြူနစ်များနှင့် တပ်မတော်တို့ ပြင်းထန်သော တိုက်ပွဲများကြောင့် တပည့်ဒကာများ၏ ပြန်လည်လျှောက်ထားပင့်ခေါ်မှုကို လိုက်လျောကာ ဝေ့သုက္ခိကျောင်းသို့ ပြန်လည်ကြွရောက် သီတင်းသုံးတော်မူခဲ့လေသည်။

(ကျမ်းကိုး၊ အထက်ပါအကြောင်းအရာများကို ဆရာအောင်ဇေ၏ ၁၉၉၉ ဇူလိုင်လ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စာ ၄၁၊ ၄၂ မှ ရရှိပေသည်။ ထိုအချက်များကိုလည်း ထီးချိုင့်မြို့ တည်တော ဆရာတော် ဘဒ္ဒန္တဒေဝိန္ဒ မဟာထေရ်၏ လက်ရေးစာမူမှရသည်ဟု ဆိုပေရာ ခိုင်လုံစွာမှတ်သားရပေသည်။)

(ကျမ်းကိုး၊ ဝေ့သုက္ခိ ဆရာတော်တောထဲမှာ ၂၅ နှစ် ကျင့်ကြံပုံနှင့် စပ်လျဉ်း၍ မဟာစရိယ ဦးဌေးလှိုင်ကလည်း အသေအချာ မှတ်တမ်းတင်ခဲ့ရာ မဟူဒူတ၊ စာ ၂၉၄၊ ၃၁၀ တို့တွင် ဖတ်ရှုသင့်ပါသည်။ ယခုဖော်ပြမည်မှာ ထူးခြားချက် အချို့အဝက် မှတ်တမ်းမှတ်ရာ များဖြစ်ပါသည်။)

လူသာမန်တို့ အံ့ဩသည်ထက် ပို၍အံ့ဩဖွယ်ကောင်းသော အံ့ဖွယ်များကို အကြိမ်များစွာ ဖူးတွေ့ကြရကြောင်း သိရပါသည်။ ကောက်နုတ်ဖော်ပြပါမည်။



## အိပ်တာ မြင်ဖူးသူမရှိ

ကျွန်တော်ဖြင့် ဆရာတော်ကြီးအိပ်စက် လှဲလျောင်းနေတာတစ်ခါမျှမမြင်ဖူးဘူး၊ ဒူးတစ်ဖက် ဒါမှမဟုတ် ဒူးနှစ်ဖက်ကို လက်ပိုက်ပြီးဖြစ်စေ၊ စမွယ်တင်လိုလို ထိုင်လျက်ဖြစ်စေ အမြဲတမ်း ဒီလိုနေတာပဲ ဖူးတွေ့ရတယ်ဟု ဆိုသူများရှိပါသည်။

## နဂါးက လူယောင်ဆောင်သလော

၁၉၆၉ အေဒီ ၁၉၆၉ ခု (၁၃၃၀ ပြည့်နှစ် )က ဆရာတော်ကျောင်းမှာ မရှိတုန်း ဆရာတော်နေရာကို အာဂန္တုဦးပဥ္စင်းတစ်ပါးက ရှင်းလင်းသုတ်သင်မည်ဟု ဖျာကိုလှန်တဲ့အခါ ထိုင်တဲ့နေရာတည့်တည့် ဖျာအောက် မှာ ထူးဆန်းတဲ့မြွေငယ်တစ်ကောင် ခွေနေတာကို တွေ့ကြရတယ်။ သူငယ်ယောင်ဆောင်သော နဂါးများဖြစ်နေရော့သလား မသိဟု ဆိုကြပါသည်။

## အလင်းရောင်တစ်မျိုး ထွက်နေခြင်း

ဆရာတော်ကျောင်းမှာ အမြဲတမ်းအမွှေးနံ့တစ်မျိုးရတယ်။ အလင်းရောင်တစ်မျိုးလဲ ထွက်နေတယ်ဟုဆိုကြပါသည်။ ရင်းနှီးတဲ့ ဒကာဖြစ်ဖြစ် ဆွေမျိုးရင်းချာဖြစ်ဖြစ် သီလပေး တရားစကားအနည်းငယ် ပြောတာကလွဲလို့ မာကြောင်းသာကြောင်း ဘာမှ မေးလေ့မရှိဘူး။ သူစိမ်းတစ်ရံဆံ ဆက်ဆံသလိုပဲ ဆက်ဆံတယ်ဟုလည်း ပြောစမှတ်ပြုကြ၏

## နွေ မိုး ဆောင်း ဟူ၍ မသိ

ဝင်းအပြင် ရပ်ရွာရှိ လူတိုင်းလိုလို အမြဲတွေ့ကြုံနေရသဖြင့် ရိုးနေသော အံ့ဖွယ်များလည်း ရှိပေသေးသည်။ ယင်းတို့သည်ကား အခြားမဟုတ်၊ နွေမိုးဆောင်းဟူသော သဘာဝဥတုသုံးလီ ရာသီဆယ့်နှစ်သည် ဆရာတော်အတွက် အပြောင်းအလဲမရှိခြင်း ပင်တည်း။ ရွာသားတို့ ပြောဆိုလေ့ရှိကြသည်မှာ အောက်ပါအတိုင်းဖြစ်၏။

## ထီးမဆောင်း ဖိနပ်မစီး

ဆရာတော်က နွေခေါင်ခေါင်ကြီး ဖိနပ်မစီး။ ထီးမဆောင်းဘူး။ နေဘယ်လောက်ပူနေနေ။ ကိုယ်ဝတ် သင်္ကန်းကို လှပ်ခွာနေတယ်မရှိ၊ ပကတိနေမြဲ ကြွမြဲပဲဟု ပြောဆိုလေ့ရှိကြ၏။

## စောင်မခြုံ

ဆောင်းအခါမှာလည်း ဘယ်လောက်အေးအေး။ နှင်းတွေ ဘယ်လောက်ကျကျ။ မီးလည်း မလှုံ။ စောင်လည်းမခြုံဘူး။ စကြံလျှောက်ချိန်လျှောက်။ သွားနေကျ တောထဲသွားနေမြဲပဲဟု ပြောလေ့ရှိပါသည်။



**မိုးရေမစိုစွတ်**

မိုးတွင်းမှာ မိုးဘယ်လောက်ရွာရွာ ဆရာတော်မှာ ဘယ်တော့မှ ထီးမဆောင်းဘူး၊ ဒါပေမယ့် သင်္ကန်းတော်ရော ခန္ဓာကိုယ်ပါ တစ်ခါမျှ မိုးစိုစွတ်တာ မတွေ့ဖူးဘူးဟု ယခုတိုင်ပြောဆိုအံ့ဩ၍ မပြီးနိုင်ကြချေ။

**ကုဋီတက်တာ မတွေ့ဘူးဟုဆို**

ထိုမှတစ်ပါး တပည့် ဒကာ ဒကာမများ ကိုယ်တွေ့အံ့ဖွယ်များလည်း ရှိနေကြပေးသေးသည်။ တချို့က ဆရာတော် ကုဋီတက်တာ တစ်ခါမျှ မတွေ့စဖူးဟုဆို၏။ တောထဲ၌ ကုဋီသွားသောနေရာကိုပင် ဆရာတော်ထပြီး မရှေးမနှောင်းသွားကြည့်ရာ မည်သည့်အညစ်အကြေးမျှ မတွေ့ရဟုဆိုသည်။

**ဆံတော် မရိတ်ဘဲ အလိုလို**

ဆံတော်ကိုလည်း မည်သူရိတ်ပေးသည်ကိုမျှ မမြင်တွေ့ရဘဲ ခေါင်းရိတ်ထားသည်ကိုသာ ဖူးတွေ့ကြရ၏။

**တံမြက်စည်းမလှည်း အမြဲပြောင်ရှင်းနေ**

ဆရာတော်နေသော ကျောင်းဝင်းတွင်လည်း မည်သူမျှ တံမြက်မလှည်းရ၊ အမြဲပြောင်ရှင်းနေသည်ကို တွေ့ကြရလေသည်။ လူစုလူဝေးနှင့်ပူဇော်ပြီးသော အခါမျိုးတွင်ပို၍ထင်ရှားသည်ဆိုလေသည်။

**မြွေတွေ မြွေတွေ လာနေ**

ထိုအရပ်ဒေသသည် မြွေဆိုးများ ပေါများလှသဖြင့် ဒကာတစ်ဦးက ဆရာတော်အား အသိပေး လျှောက်ထားရာ ဆရာတော်က သူနေထိုင်ရာကျောင်းအမိုးပေါ်သို့ မော့ကြည့်ကာ၊ မြွေကတော့ ငါ့ကျောင်းပေါ်မှာတောင်ရှိနေတာပဲဟု မိန့်တော်မူ၏။ ထိုဒကာကိုယ်တိုင်ပင် တွေ့မြင်ရလေသည်ဟု ဆိုပါသည်။

**ဘဝနတ်ထံ ပျံလွန်တော်မူခြင်း**

၁၉၇၈ ထိုထိုဤဤ အလီလီသော အံ့ဖွယ်အပေါင်းနှင့် ပြည့်စုံတော်မူသော ဝေ့သုကို့ဆရာတော်ကြီးသည် သက်တော် ၈၇ နှစ် ဝါတော် ၆၇ ဝါ အရ ၁၃၃၉ ခုနှစ် တပို့တွဲလဆန်း ၆ ရက် (၁၃ ဖေဖော်ဝါရီ ၁၉၇၈ ) တနင်္လာနေ့ ညနေ ၆ နာရီ ၄၅ မိနစ်အချိန်တွင် ဘဝနတ်ထံပျံလွန်ခဲ့ကြောင်း သိရှိရပါသည်။

**ရုပ်ကလာပ်မှ အလင်းရောင်ထွက်**

ထိုအခါ ရုပ်ကလာပ်တော်မှ အလင်းရောင်များ ဖြာထွက်လင်းထိန်လျက်ရှိကြောင်းကိုလည်း ပရိသတ်အများ တွေ့မြင်ခဲ့ကြရပါသည်။



## အခင်းမှာ ပုံတော်ထင်နေခြင်း

ဂှင်းအပြင် မှန်ခေါင်းတော်အောက်ရှိအခင်းမှာ ဓာတ်မှန်ရိုက်ထားသကဲ့သို့ ဆရာတော့်ပုံ ထင်ဟပ်နေခြင်း၊ ခွဲဝေပူဇော်ထားကြသော သင်္ကန်းစများမှာပင် ဆရာတော်ပုံထင်နေသည်ကို အများပင် ဖူးတွေ့ကြရသည်ဟု သိရှိရပါသည်။

## ရှာလို့ မတွေ့

ဆရာတော်ရှိစဉ် ကာလကလည်း မျက်စိအောက်မှာပင် ပျောက်ကွယ်နေ တတ်ကြောင်း မကြာခဏကြုံတွေ့ကြပါသည်။ သစ်တစ်ပင် ဝါးတစ်ပင်အောက် တရားအားထုတ်နေသောအခါ၌လည်း လူအများ ရှာဖွေကြသောအခါ မတွေ့ မမြင် ရှိတတ်သော အကြိမ်ပေါင်းများစွာလည်း ရှိတတ်သည်။

## ကိုယ်ပျောက်တဲ့ ကျောင်းသားလေး

ဆရာတော်အနီး၌ ကလေးကျောင်းသားအရွယ် လူငယ်တစ်ယောက်သည် ဘယ်ကမှန်း မသိဘဲ အမြဲတစေလို ရှိနေပြီးလျှင် ဝတ်ကြီးဝတ်ငယ်အသွယ်သွယ်ကို ဆောင်ရွက်လျက် ရှိကြောင်း တွေ့ကြုံကြရပါသည်။ ထိုကျောင်းသားငယ်ရှိသည်ဟု ထင်မှတ်၍ အသေ အချာ ရှာဖွေကြည့်လျှင်လည်း မတွေ့မမြင်နိုင်ကြပါ။

## သင်္ကန်းတစ်စုံသာရှိ ဘယ်အခါမှ မလျှော်မဖွတ်

ဆရာတော်တွင်ရှိသော တစ်စုံတည်းသော သင်္ကန်းမှာလည်း မလျှော်မဖွတ်ဘဲ နှင့် နှစ်ပေါင်းရှည်ကြာစွာ ဝတ်ရုံသော်လည်း အနံ့အသက်မရှိကြောင်း၊ နံစော် ခြင်းမရှိကြောင်း၊ အရောင်အဆင်းလည်း မပြောင်းမလဲရှိကြောင်း အားလုံးက အကဲခတ် သိရှိခဲ့ကြလေသည်။

## ဝေ့သုက္ခိဆိုတာ ချောင်းငယ်ကလေး၏ အမည်လော

ဝေ့သုက္ခိဆိုသည်မှာ ရွာအနီးရှိ ချောင်းငယ်ကို အစွဲပြု၍ ခေါ်ဝေါ်ခြင်းဖြစ်ကြောင်း သိရှိပါသည်။ ဝေ့သုက္ခိဆရာတော် သီတင်းသုံးအောင်မြင်ခဲ့သော နေရာထူးနေရာမြတ်တွင်လည်း ယခုလက်ရှိ ဆရာတော်က အောင်မြေစေတီဟု ဘွဲ့တော်သတ်မှတ်ပြီးလျှင် စေတီတစ်ဆူ တည်ထားကိုးကွယ်ထားရှိ ကြောင်း သိရှိရပါသည်။

၁၉၇၃ ယခုလက်ရှိ ဒုတိယဝေ့သုက္ခိဆရာတော်မှာ စစ်ကိုင်းတိုင်း သံယာ့ဝန်ဆောင်လည်း ဖြစ်၏။ ဘွဲ့တော်မှာ ဘဒ္ဒန္တအဂ္ဂဝံသဖြစ်ကြောင်း သိရှိရပါသည်။ ပေပင်ရွာဇာတိဖြစ် ကြောင်း၊ ၁၉၇၃ ခုနှစ်တွင် တောင်တန်း သာသနာ့ပြုတာဝန်ဖြင့် ကချင်ပြည်နယ် မြောက်ပိုင်း ဆွမ်ပရာဘွမ်မြို့၌ သီတင်းသုံးနေထိုင်ခဲ့ကြောင်း သိရှိရပါသည်။

၁၉၇၉ ဝေ့သုက္ခိရွာမှာ ယခုအခါ ကဒူးတိုင်းရင်းသားနေထိုင်ကြကြောင်း အိမ်ခြေ ၃၀ မျှ ရှိကြောင်း သိရှိရပါသည်။ ယခုလက်ရှိ ဆရာတော်သည် ၁၃၄၁ ခု (၁၉၇၉ ခု)မှ၍ ဝေ့သုက္ခိ ကျောင်းတိုက်၌ ကျောင်းထိုင်ဆရာတော်ဖြစ်လာခဲ့ကြောင်း သိရှိရပါသည်။

၁၉၉၆ ၁၃၅၈ ခု ( ၁၉၉၆ ) ခုနှစ်တွင် ပထမဝေ့သုက္ခိဆရာတော်ဘုရားကြီး တရားထူးရရာ



ပန်းထိမ်ကုန်းတောရ၌ စေတီတော်တစ်ဆူတည်ထားခဲ့ကြောင်း သိရှိရပါသည်။ ဇေ့သုက္ခိဆရာတော်ကြီး အောင်မြေနေရာတွင် ရွှေကြောကြီးရှိကြောင်း သိရသဖြင့် ယခုအခါ ရွှေရှာဖွေထုတ်လုပ်သူများအဖြင့် စည်ကားလျက်ရှိကြောင်း သိရပါသည်။

## ဇေ့သုက္ခိလမ်းညွှန်

ဗန်းမောက်မြို့မှ သွားလျှင်ပင် ဟင်ခါးသို့ရောက်၏။ ဆက်၍သွားလျှင် မံပင်သို့ရောက်၏။ ဆက်၍သွားလျှင် နန့်မွန်ကုန်းသို့ ရောက်၏။ ဆက်၍သွားလျှင် ပင်ပုံသို့ရောက်၏။ ဆက်၍သွားလျှင် ကန်ကုန်သို့ရောက်၏။ ဆက်၍သွားလျှင် နန့်သောင်သို့ရောက်၏။ ဆက်၍သွားလျှင် ကုန်းပတောင်းသို့ ရောက်၏။ ဆက်၍သွားလျှင် မန်စီကြီးသို့ရောက်၏။ ဆက်၍သွားလျှင် မံပိန်းသို့ရောက်၏။ တစ်ဖက်တစ်ချက်တွင် ဇေ့သုက္ခိသို့ သွားရာလမ်းရှိ၏။

ဗန်းမောက်မြို့၏ မြောက်ဘက်သို့ ၂၅ မိုင်ခန့်သွားရ၏။ ဇေ့သုက္ခိကျေးရွာ ဘုန်းတော်ကြီးကျောင်းသို့ စက်ဘီးဖြင့် ခရီးသွားသူပင်လျှင် ၅ နာရီကြာသည်ဟု သိရပါသည်။

ဗန်းမောက်မြို့နယ်မှ ရဟန္တာဟုကျော်ကြားသော အရည်ဝါသီ ဇေ့သုက္ခိဆရာတော်ကြီး အကြောင်းကား နောက်ထပ် လေ့လာစရာများများစွာ ကျန်ရှိနေပေလိမ့်ဦးမည်။ ဤစာပြုသူကား ရှာဖွေတွေ့ရှိသလောက်သာ ပူဇော်ရခြင်းဖြစ်သည်။

(ကျမ်းကိုး၊ (၁) မွှာစရိယ ဦးဌေးလှိုင်၊ ဗန်းမောက်မြို့နယ် ရဟန္တာဟုကျော်ကြားသော အရည်ဝါသီ ဇေ့သုက္ခိဆရာတော်၊ ၁၂၅၃-၁၃၃၉၊ ဗုဒ္ဓအသံ စာပေ၊ ဓမ္မဒူတ၊ ၂၉၄၊ ၃၁၀)

(ကျမ်းကိုး၊ (၂) စံထွန်းသာ၊ သက်န်းတွင် အရိုးစုပုံပေါ်သည့် ဇေ့သုက္ခိဆရာတော် နက္ခတ္တ ရောင်ခြည်၊ ၂၀၀၄ ခု၊ ဇူလိုင်လ၊ အမှတ် ၂၁၆ ၊ စာ ၂၅ - ၃၀)

(ကျမ်းကိုး၊ (၃) အောင်ဇ LL.B ဘုန်းပွင့်ဝေစည် ဇေ့သုက္ခိအောင်မြေသို့ နက္ခတ္တရောင်ခြည်၊ ၁၉၉၉ ခု၊ ဇူလိုင်လ၊ အမှတ် ၁၅၆၊ စာ ၄၁ - ၄၆)

ကျမ်းကိုး ။ မသူကျော်သွား သိသူဖော်စား ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ ပေါင်းချုပ်ကြီး၊ ဗန်းမောက်ရဟန္တာ ဇေ့သုက္ခိဆရာတော် (၁)အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၃၂၊ ၃-၁၁-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။ ဗန်းမောက် ရဟန္တာဇေ့သုက္ခိဆရာတော် (၂)အချစ်ဂျာ နယ်၊ အတွဲ ၄၊ အမှတ် ၃၃၊ ၁၀-၁၁-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။ ဗန်းမောက် ရဟန္တာဇေ့သုက္ခိ ဆရာတော် (၃) အချစ်ဂျာနယ်၊ အတွဲ ၄၊ အမှတ် ၃၄၊ ၁၇-၁၁-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

# သပိတ်အိုင်တောရ ဆရာတော် ဦးကိတ္တိ

**အေဒီ ၁၈၉၃ – ၁၉၆၉ ( ၁၂၅၅ – ၁၃၃၁)**



အလွန်ထူးဆန်းသော နိဒါန်းတစ်ခုကိုဖတ်ရ၏။ ထိုနိဒါန်းမှာ "ဤကျမ်းကို အလိုရှိက မည်သူမဆို ရိုက်နှိပ်ကူးယူနိုင်သည်"ဟူ၍ ဖြစ်၏။ ဤခေတ်တွင် အလွန်ထူးဆန်းနေ၏။

နိဒါန်းကို ဖတ်ပြန်သောအခါ အံ့ဖွယ်ဖြစ်ပြန်၏။ နိဒါန်းတွင် ရေးထားသည်မှာ -

> "ကျမ်းကြီးကြီးရေးရမည်ဆိုသော် ဝန်မလေး။ များများ ရေးလိုက်ရုံသာဖြစ်သည်။ ကျမ်းကြီးကြီး ရေးလိုက်သော် ဗဟုသုတ အလိုငှာသာလျှင်များပေလိမ့်မည်။ ဝေငှလှူဒါန်းနိုင်ရန် ခဲယဉ်းသွားလိမ့်မည်။ ဗဟုသုတအလို့ငှာ ရေးသားထားကြသော ကျမ်းကြီးမျိုးတို့ကား များကုန်၏။ နောက်ထပ်ရေးရန်မလို"

ဟူ၍ဖြစ်၏။ အလွန်ရှင်း၏။ ထိုအလွန်ထူးဆန်းသော ကျမ်း၏အမည်မှာ စူဠသောတာပန်ဖြစ်ခန်း ဓာတ်ကမ္မဋ္ဌာန်း ကျမ်းစာအုပ်ဖြစ်၏။ ပြုစုသူမှာ သပိတ်အိုင်တောရ ဆရာတော်ဦးကိတ္တိဖြစ်၏။

> (ကျမ်းကိုး၊ ထိုကျမ်းကို ပိဋကဗျူဟာအဖွဲ့၏ (၁၅)အုပ်မြောက် စာအုပ်အဖြစ် ထုတ်ဝေထားသည်ကို ဖတ်ရှုရာ အလွန်အကျိုးများပေ၏။ ပိဋကဗျူဟာအဖွဲ့ကြီး၏ ဩဝါဒစရိယ အဘိဓဇမဟာရဋ္ဌဂုရု ဘဒ္ဒန္တ ပညိန္ဒာဘိဝံသ ကိုယ်တော်မြတ်ကြီး၏ ဩဝါဒကထာကိုလည်း ကြည်ညိုစွာဖတ်ရှုရ၏။ ပိဋကဗျူဟာအဖွဲ့ ဥက္ကဋ္ဌ ဦးပွ၏ အမှာစာကိုလည်းဖတ်ရ၏။ ပို၍မမေ့နိုင်သည်ကား ဝဏ္ဏကျော်ထင် ဦးဘသိန်း၏ သပိတ်အိုင် တောရဆရာတော်ဘုရား အတ္ထုပ္ပတ္တိဖြစ်၏။ ဖတ်သည်မှာ အကြိမ်ကြိမ်ဖြစ်၏။ ဖတ်၍မဝ၊ ကြည်ညို၍မဝ၊ သပိတ်အိုင်တောရဆရာတော် ဘုရားဟူသည်ကားအဘယ်နည်း။ ကျွန်ုပ် အဘယ့်ကြောင့် စွဲလမ်းစွာ ဖတ်ရခြင်းကို သင်သိအောင် အောက်တွင်ဖတ်ကြည့်ပါဦး။)

၁၈၉၃ သပိတ်အိုင်တောရ ဆရာတော်သည် တောင်ငူဒိစကြိတ်ရွှေကျင်မြို့ အနောက်ဘက်ဇာတိဖြစ်၍ ပဝတ္တိ ညောင်လေးပင်ဖြစ်သည်။ အဘမှာ ညောင်လေးပင်ဇာတိဖြစ်၍ အမိမှာ ရွှေကျင်ဇာတိဖြစ်သည်။ အေဒီ ၁၈၉၃ ခု၊ ဧပြီလ ၁၇ ရက်၊ (၁၂၅၅ ခုနှစ်၊ ကဆုန်လဆန်း ၃ ရက်)တနင်္လာနေ့ ဖွားမြင်သည်။

၁၉၁၇ အေဒီ ၁၉၁၇ ခု၊ မတ်လ ၁၁ ရက်၊ တနင်္ဂနွေနေ့ (၁၂၇၈ ခုနှစ် တပေါင်းလဆုတ် ၄ ရက်နေ့) နံနက် ၈နာရီခွဲ အချိန်တွင် ရွှေကျင်ဂိုဏ်းဝင် သပြေပင်တောရ ခဏ္ဍသိမ်၌ ပင်လျှင် ရဟန်းအဖြစ်သို့ရောက်၏။

၁၉၂၆ စာပေ ပရိယတ္တိတို့ကို သင်ရိုးပေါက်အောင် သင်ကြားလာခဲ့ပြီးနောက် အေဒီ ၁၉၂၆ ခု၊ ဧပြီလ ၂၁ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၂၈၈ ခုနှစ်၊ ကဆုန်လဆန်း ၁၁ ရက်နေ့) ညရထားဖြင့် စီးနင်း၍ ဘီလူးကျွန်း ရွာလွတ်ရွာ ဂူကလေးတောရ၌ တစ်ဝါဆိုခဲ့၏။

၁၉၂၆ ၁၉၂၆ခု၊ ဒီဇင်ဘာလ ၁၇ ရက်၊ သောကြာနေ့ (၁၂၈၈ ခုနှစ်၊ နတ်တော်လဆန်း ၁၃ ရက်နေ့)သပိတ်အိုင်တောရကျောင်းသို့ရောက်လာ၏။

## နိမိတ်ကောင်းရပုံ

သပိတ်အိုင်ဆရာတော် ဘုရားကြီး တောထွက်ရန် အကြံတော်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဖတ်ရှုရပါသည်။

> အထူးမှတ်မိသည်မှာ တစ်နေ့သော ညအခါ နာရီကို သတိထားပြီး အိပ်ကြရာ ရထားသို့သွားရန် နာရီအချိန်ကျရောက်သောအခါ မည်သူမျှ အလိုအလျောက်မနိုးကြဘဲ မြေလျှောင်ကြီးလှုပ်လိုက်သော အခါကျမှသာလျှင် အားလုံးနိုးကြ၍ လိုက်၍ပို့သော

ဦးသုနန္ဒနှင့်တကွ ဘူတာသို့လာကြ၏။ ထိုအခါ ဘယ်သူ့ကိုမျှ တစ်စုံတစ်ရာ မပြောဘဲ ငါသည် အကြံအောင်တော့မည်တကားဟု သဘောပိုက်လျက် အထူးဝမ်းမြောက်လေတော့၏။ 

## တောတိရစ္ဆာန်များ အန္တရာယ်မပြုကြပုံ

သပိတ်အိုင်ဆရာတော်ဘုရားကြီးသည် တောစဉ်တောင်စဉ်တစ်လျှောက် တရားထူး တရားမြတ်များရသည်အထိ အားထုတ်တော်မူရာ ဘဝတစ်ကွေ့တွင် တွေ့ကြုံရပုံ အစုစုတို့ကို ကိုယ်တော်တိုင် မှတ်တမ်းတင်တော်မူခဲ့သည်ဖြစ်ပေရာ ဆရာတော်ဘုရားကြီး၏ ကိုယ်တိုင်ရေး မဟာထေရုပ္ပတ္တိကထာကြီးမှာ အထူးအံ့ဩဖွယ် ကြည်ညိုဖွယ် မှတ်သားဖွယ်တို့ဖြင့် ပြည့်စုံလျက်ရှိရကား။ ဝေဝေဆာဆာ ဖြစ်အောင် မပြုလုပ်တော့ဘဲ မူရင်းအတိုင်း ဖတ်ရှုရမည်လျှင် အကျိုးများမည် ထင်သောကြောင့် မှတ်စုထုတ်၍ တင်ပြပါမည်။

သပိတ်အိုင်တောရကျောင်းသို့ရောက်မှ တွေ့ကြုံဖြစ်ပျက်သောအကြောင်း အတ္ထုပ္ပတ္တိတို့ကား ဤသို့တည်း။

၁၉၂၇ အေဒီ ၁၉၂၇ခု၊ ဖေဖော်ဝါရီလ (၁၂၈၈ ခုနှစ် ပြာသိုလ ည ၈ နာရီ ) အချိန်ဆင်နှင့် ကျောင်းအနီးမှာပင်တွေ့၍ ကျောင်းပေါ်ကနေပြီးလျှင် မီးကိုပြ၍ 'ဒီကိုလာ ဒီကိုလာ'ဟု လက်ပြ၍ ခေါ်လိုက်သောအခါ ကျောင်းလှေကားအနီး လေးတောင်မျှလောက်သော ကွာရာအရပ်သို့ ရောက်လာလျက် ၁၅ မိနစ်ခန့်မျှ ရပ်နေ၏။ ၎င်းနောက် 'သွားတော့ သွားတော့'ဟု လက်နှင့် ပြလိုက်သောအခါမှ ထွက်သွားတော့၏။

၁၉၃၁ အေဒီ ၁၉၃၁ခု၊ နိုဝင်ဘာ ၂၃ ရက်၊ တနင်္လာနေ့ (၁၂၉၃ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၄ ရက်နေ့) ဆွမ်းခံထွက် အသွားလမ်း၌ ကျားနှင့်ရင်ဆိုင်တိုးမိ၏။

၁၉၃၄ အေဒီ ၁၉၃၄ ခု၊ ဖေဖော်ဝါရီ ၂၅ ရက်၊ တနင်္ဂနွေနေ့ (၁၂၉၅ ခုနှစ်၊ တပေါင်းလဆန်း ၁၃ ရက်နေ့) ရဟန်းခံကိစ္စရှိ၍ အရုဏ်တက်ထလာရာလမ်း၌ တောကောင်များကိုထောင်သော ဇကောက်တိုးမိ၍ ဇကောက်သုတ်လိုက်သော်လည်း မမိဘဲ လွတ်သွား၏။ ထိုဇကောက်သည် ဘိုးငွေထောင်သော ဇကောက်ဖြစ်သည်ဟုဆို၏။

၁၉၃၄ အေဒီ ၁၉၃၄ခု၊ ဇွန်လ ၁၁ ရက် တနင်္လာနေ့ (၁၂၉၆ ခုနှစ် ပဌမဝါဆိုလဆန်း ၁ ရက်နေ့) တရားအားထုတ်နေစဉ် ည ၆ နာရီခွဲအချိန်တွင် ငှက်တစ်ကောင်သည် အခန်းထဲသို့ဝင်လာပြီးလျှင် လက်ပေါ်၌ ကြာမြင့်စွာလာ၍ နားနေသောအခါ ခေါင်း နှုတ်သီး အတောင် စသည်တို့ကို ကိုင်တွယ်ကြည့်ရှုသော်လည်း မကြောက်မရွံ့နှင့်ပင် နေလေ၏။ ထိုအခါ အကြံဖြစ်သည်မှာ ဒီငှက်ဟာ ရိုးရိုးငှက် ဟုတ်မည်မထင်၊ ငါ၏ တရားအားထုတ်မှုကို လာ၍နှောင့်ယှက်သောငှက်ပင်ဖြစ်မည်ဟု သဘောပိုက်၍ အပြင်သို့ ထပြီးလျှင် တန်းတစ်ခုပေါ်သို့ တင်ထားလိုက်၏။ ၇ နာရီလောက်မှ ပျံသွားသည်။ ၎င်းသည် မြေပြေးကောင်ငှက်ဖြစ်သည်။

၁၉၄၀ အေဒီ ၁၉၄၀ခု၊ ဖေဖော်ဝါရီလ ၁၅ ရက်၊ ကြာသပတေးနေ့ (၁၃၀၁ ခုနှစ်၊ တပို့တွဲလဆန်း ၈ ရက်၊ နံနက် ၄ နာရီခွဲ)အချိန် ကျောင်းအောက် လွင်ပြင်၌ ရုက္ခမူဓုတင်ကာ သီကစုတင်ရရန် အလို့ငှာ မေ့ထိုင်အားထုတ်နေစဉ် တောဖျံတစ်ကောင်သည် လာ၍ ခြေထောက်၊ သင်္ကန်းတို့ကို နမ်းကြည့်ပြီးလျှင် မျက်နှာကိုမော့ကြည့်၍ထွက်သွားသည်။

၁၉၄၀ အေဒီ ၁၉၄၀ ခု ၊မေလ ၉ ရက်၊ ကြာသပတေးနေ့ (၁၃၀၂ ခုနှစ်၊ ကဆုန်လဆန်း ၄ ရက်နေ့) ရွာသားများ ဇရပ်လာမိုးကြရာ ထိုအခါဇရပ်တွင် လေးတောင်လောက်သာ



ကွာဝေးသော ချုံနှင့်တုံးကြီးအောက်၌ ကျားမတစ်ကောင်သည် သားဖွား နေဆဲဖြစ်၏။ ဇရပ်လာမိုးကြသော ထွန်းလင်း၊ မောင်ပါ၊ ဖာသုံ၊ စိန်လန်ဘို စသော လူငယ်တစ်စု တို့သည် ချုံများကို ခုတ်ထွင်လိုက်သောအခါ ၎င်းကျားမသည် တုံးကြီးအောက်မှ ထွက်ခွာသွား၍ သားငယ်ကလေးကျန်နေရာမှာ ၎င်းသားငယ်ကလေးကို လူတစ်စုက ကြောင်ကလေးလား၊ ကျားကလေးလားမသိဟု ပြောဆိုပြသ၍ ကြည့်သောအခါ 'ဟဲ့ကောင်တွေ ကြောင်ဟာ နှုတ်သီးလုံး၍ နှုတ်သီးရှည်သည်။ နားရွက်ချွန်၍ နားရွက် ရှည်သည်။ ယခု ဤအကောင်လေးမှာ နှုတ်သီးတို၍ နှုတ်သီးဝိုင်းသည်။ နားရွက်တို၍ နားရွက်ဝိုင်းသည်။ ထို့ကြောင့် ကျားကလေးပဲ'ဟု ပြောဆို၍ သိမ်းယူလိုက်၏။ 'မင်းတို့ ဇရပ်ကိုသာ ခပ်မြန်မြန်မိုးကြပါ။ သူ၏သားကို သူလိုချင်လှရော့မယ်' ဟုပြောဆိုပြီး ဆွမ်းစားနေရင်း ကြည့်ရှုနေစဉ် သူ၏သားကို သူလိုချင်သောစိတ်ကြောင့် မကြောက် မရွံ့ (၇)ခါတိတိ လူတောထဲသို့ အတင်းတိုး၍ ရှာနေသောကြောင့် ဘုန်းဦးက ၎င်း သားလေးကိုယူ၍ပေးမည်ဟု သွားသောအခါ ဘုန်းကြီးလက်ဝယ်သို့ ရောက်နေ ကြောင်းကို အသေအချာကြည့်ရှု၍သိလျှင် စိတ်ပျက်သော သဘောမျိုးဖြင့် ပေါက်ဆွ ပေါက်ဆွနှင့် ပြေးသွားလေ၏။ ဇရပ်မိုးသောသူတို့ပြန်ကြ၍ နေဝင်ပြီးမှ သူ၏ ပထမနေရာ၌ တစ်ဖန်သွားထားပေးထားသောအခါကျမှ လာယူသွားသည်။

၁၉၄၀ အေဒီ ၁၉၄၀ ခု၊ ဧပြီလ ၁၅ ရက်၊ တနင်္လာနေ့ (၁၃၀၂ ခုနှစ်၊ တန်ခူးလဆန်း ၉ ရက်နေ့) လူကို အကြိမ်ကြိမ်သတ်၍ ဆင်ဦးစီး တစ်ယောက်ကို စားသည်ဟု သတင်းကြီး နေသော နာမည်ကျော် ချစ်စရာခေါ် အလွန်ဆိုးသောဆင်၏ ပါးစပ်ထဲသို့ အစာခွံ့ ကျွေးရာ ကောင်းစွာစားသောက်၏။ ဆင်ဦးစီးဖြစ်သော ချစ်လှ၊ ညိမ်း၊ ၎င်းအပြင် ဇစိန်တို့ ရှေ့မှာပင်ဖြစ်၏။

(မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၂၁)၊ ၂၂-၈-၂၀၀၅။)

၁၉၄၀ အေဒီ ၁၉၄၀ ခု၊ ဧပြီလ ၁၇ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၀၂ ခုနှစ်၊ တန်ခူးလဆန်း ၁၁ ရက်နေ့) ၎င်း ဆင်ဆိုးကိုပင် ၎င်းအတိုင်း အစာကျွေးပြီး အစွယ်ဖျားကို ကိုင်တွယ်ကြည့် ရှုသော်လည်း ရန်မမူကောင်းစွာပင်နေ၏။ ထိုအခါ ချစ်လှ၊ ညိမ်း၊ ထွန်းခိုင် စသော ကရင်မလေးတွေ အများရှေ့မှာပင်ဖြစ်၏။

၁၉၄၀ အေဒီ ၁၉၄၀ ခု၊ ဧပြီလ ၂၀ ရက်၊ စနေနေ့ (၁၃၀၂ ခုနှစ်၊ တန်ခူးလဆန်း ၁၄ ရက်နေ့) ၎င်းဆင်ဆိုးလွတ်ပြီး ထွက်ပြေးနေတုန်း လိုက်ဖမ်းကြစဉ် ဆွမ်းခံအပြန် ရင်ဆိုင်တိုးမိပြန်၏။

၁၉၄၀ အေဒီ ၁၉၄၀ ခု၊ ဧပြီလ ၂၂ ရက်၊ တနင်္လာနေ့ (၁၃၀၂ ခုနှစ် တန်ခူးလဆုတ် ၁ ရက်နေ့) ဆင်ဦးစီးနှင့်တကွ ကျောင်းသို့ရောက်လာကြ၍ ဆင်ဦးစီးတို့သည် ကျောင်း ပေါ်၌နေကြ၍ ကျောင်းအောက်၌ ၎င်းဆင်ဆိုးနှင့် အခြားတစ်ကောင်ပါ နှစ်ကောင်ကို ကိုယ်တိုင် အစာခွံ့ကျွေး၏။ ဆင်ဦးစီးဖြစ်ကြသော ချစ်လှ၊ မြစိန်၊ ၎င်းပြင် ထွန်းခိုင်၊ ပိန်တာ၊ ကျင်ခဲတို့ရှိနေကြ၏။

၁၉၄၀ အေဒီ ၁၉၄၀ ခု၊ ဧပြီလ ၂၃ ရက်၊ အင်္ဂါနေ့ (၁၃၀၂ ခုနှစ် တန်ခူးလဆုတ် ၂ ရက်နေ့) ၎င်းဆင်နှစ်ကောင်ကိုပင် ဆင်ဦးစီးများကို ကျောင်း၌မနေစေဘဲ 'ဆင် နှစ်ကောင်ကိုသာ ထားပစ်ခဲ့ကြ၊ မင်းတို့ပြန်သွားကြတော့၊ ငါနှင့်ဆင်နှစ်ကောင် ဘာပဲဖြစ်ဖြစ် ဖြစ်ချင်သလို ဖြစ်ပေစေတော့' ဟု ပြောသောအခါ ဆင်ဦးစီးနှစ်



ယောက်က ရယ်မောကြသည်။ ၎င်းတို့နှစ်ယောက် ပြန်သွားပြီးမှ အသင့်ပြုလုပ်ထားသော ငှက်ပျောပင် ၁၂ ပင်ကို တစ်နာရီခွဲကြာမျှ ပါးစပ်အတွင်းသို့ ခွံ့ကျွေးပြီး အလိုရှိရာသို့ သွားစေရာ ထူးမရှိဘဲလျက် ကျောင်းအတွင်းမှာပင် စားလျက် အချိန်ကုန်စေ၏။

၁၉၄၁ အေဒီ ၁၉၄၁ ခု၊ မတ်လ ၁၆ ရက်၊ တနင်္ဂနွေနေ့ (၁၃၀၂ ခုနှစ် တပေါင်းလဆုတ် ၅ ရက်နေ့) ဆွမ်းခံအပြန် မရှောင်သာသော လမ်းအကြား၌ ဆင်စွယ်စုံတစ်ကောင်နှင့် ရင်ဆိုင်တိုးမိသောအခါ ဘေးအနားသို့ အနည်းငယ်တိမ်းပေးလိုက်ရာ ဆင်က တစ်ဖန်ပြန်၍ ဦးခေါင်းကို ချုံထဲသို့ တိုးပြီး တိမ်းပေးသောကြောင့် ဆင်၏ခြေနားက ၂ တောင်၊ ၃ တောင်လောက်သာ ကွာလျက်လာခဲ့ရ၏။

၁၉၄၁ အေဒီ ၁၉၄၁ ခု ၊ ဧပြီလ ၅ ရက်၊ စနေနေ့ (၁၃၀၃ ခုနှစ်၊ တန်ခူးလဆန်း ၁၀ ရက်နေ့) ၎င်းချစ်စရာခေါ် ဆင်ဆိုးကို ထူးမပါဘဲ လွှတ်ထားရာ ကျောင်းသို့ လာပြီးလျှင် ကျောင်းနှင့်ပေ ၁၀၀ မျှလောက်သာ ဝေးကွာသောနတ်မြားတောထဲ၌ စားနေစဉ် 'ချစ်စရာ ချစ်စရာ' ဟု ပေ ၅၀ လောက်ကနေ၍ ခေါ်လိုက်သောအခါ ၎င်းဆင်ဆိုး ချစ်စရာသည် ဦးတိုက်၍လာ၏။ ထိုအခါ ကျွေးစရာဘာမျှ မရှိဖြစ်နေ၍ မြကြည်နှင့် ထွန်းအုံကို 'ငါ့ကို ငှက်ပျောပင်တစ်ထမ်းစီသွားထမ်းပေးကြစမ်း'ဟု ခိုင်းလိုက်ပြီးနောက် ရောက်လာသောအခါ ပါးစပ်ထဲသို့ပင် ခွံ့ကျွေးလိုက်၏။ ကြည့်ရှုနေသူများမှာ မြကြည်၊ ထွန်းအုံ၊ ဘိုးလွင်၊ စံရွှေ ကျော်တင်၊ စံဖေ၊ အညို စသော လူပေါင်း ၁၅ ယောက်လောက် ရှေ့မှာပင် ဖြစ်ကြ၏။ ပိုက်လိုက်တို့သားအဖနှစ်ယောက်လည်းရှိ၏။ ထိုအခါ အစွယ်ကိုလည်း ကိုင်တွယ်ပြသေး၏။

၁၉၄၁ အေဒီ ၁၉၄၁ ခု၊ ဧပြီလ ၂၅ ရက်၊ သောကြာနေ့ (၁၃၀၃ ခုနှစ်၊ ကဆုန်လဆန်း ၁ ရက်နေ့ လမ်းပေါ်မှာ ၎င်းဆင်ဆိုးပိတ်နေ၍ ဆွမ်းခံအပြန် သပိတ်ထဲပါလာသော ငှက်ပျောသီး သုံးလုံးကိုပြ၍ လမ်းဘေး တစ်ခုသို့ ခေါ်ဆောင်သွားပြီးလျှင် ကျွေးမွေးလိုက်ရသေး၏။ ၎င်းနေ့ နေ့လယ်ကျောင်း အတွင်းသို့ လာပြန်၍ သစ်တိုသီး၊ သရက်သီးတို့ကို ကျွေးမွေးလိုက်ရသေး၏။

၁၉၄၁ အေဒီ ၁၉၄၁ ခု၊ ဧပြီလ ၂၇ ရက်၊ တနင်္ဂနွေနေ့ (၁၃၀၃ ခုနှစ် ကဆုန်လဆန်း ၃ ရက်နေ့) ၎င်းဆင်ဆိုးကိုပင် နတ်မြားတော၌ စားသောက်နေသော နေရာသို့ သွားပြီးလျှင် သဘောပင်၊ ငှက်ပျောသီး၊ ဒူးရင်းသီးတို့ကို ခွံ့ကျွေးပြီး အစွယ်ဖျားကို ကိုင်တွယ်သောအခါ မခံချင်၍ အနည်းငယ်အသံဟိန်း၏။ အစွယ်ကလေးကို ကိုင်တာတောင်မှ မခံချင်ဘူးလားဟုပြောဆိုပြီး တစ်ဖန်ထပ်၍ ကိုင်တွယ်ပွတ်သပ်ပြန်သောအခါ ငြိမ်လျက်နေ၏။ ကြည့်ရှုနေကြသော သူတို့မှာ အပို့၊ ထွန်းအုံ၊ အလိန်၊ အောင်သန်းတို့ဖြစ်၏။

၁၉၄၁ အေဒီ ၁၉၄၁ ခု ၊ ဧပြီလ ၂၉ ရက်၊ အင်္ဂါနေ့ (၁၃၀၃ ခုနှစ်၊ ကဆုန်လဆန်း ၅ ရက်နေ့) ဆင်ဦးစီးတို့သည် ကျောင်းသို့လိုက်၍ ဖမ်းရတာပျင်းရိ၍မလာအောင် ထူးခတ်ပြီး တစ်နေရာ၌ လွှတ်ထားသော်လည်း လာမြဲလာတော့၏။ ထိုအခါ အသင့်လုပ်ထားပြီးဖြစ်သော ငှက်ပျောပင်၊ မင်းဘောပင်၊ သစ်တို သစ်သီးတို့ကို ခွံ့ကျွေးရင်း အစွယ်ကိုကိုင်တွယ်ထား၏။ ထိုအခါ တင်အောင်ဆိုသော သူငယ်လေးကို 'မင်းဆင်စွယ်ကို ကိုင်ဖူးရဲ့လား။ လာ ငါနဲ့အတူတူ ကိုင်တွယ်ရအောင်'ဟု ပြောဆိုပြီး တင်အောင်၏လက်ကိုကိုင်၍ အစွယ်ကို ကိုင်ခိုင်းသောအခါ လက်လေးလုံးလောက်



အကွာမှာ ဝူးခနဲမြည်ကာ ခေါင်းကိုငုံ့ပစ်လိုက်သည်။ သူငယ်လေးအကိုင်ကိုပေး၏။

၁၉၄၁ အေဒီ ၁၉၄၁ ခု၊ ဧပြီလ ၂၈ ရက်၊ တနင်္လာနေ့ (၁၃၀၃ ခုနှစ်၊ ကဆုန်လဆန်း ၄ ရက်နေ့) ကျောင်းအတွင်းသို့ ရောက်လာသောကြောင့် ကျောင်းအရောက် ခေါ်ယူလာပြီးလျှင် မင်းဘောပင်၊ ထမင်းခြောက်၊ သံစည်ပုံးနှစ်ပုံး ကျွေးလိုက်သေး၏။ ထိုအခါ ဆရာထူး၊ ၎င်း၏ ဇနီး၊ တင်အောင်၊ ထွန်းငွေ စသော လူအများလည်းရှိ၏။ ဘအုန်းတို့ လူတစ်စုနှင့် ငမူးဘရွှေ၊ ဘကျား၊ ၎င်း၏ဇနီးတို့လည်းရှိကြ၏။

(၁၃၁၂ ခုနှစ် ပြာသိုလဆုတ် ၇ ရက်၊) ဆွမ်းခံအပြန် ဒင်္ဂါးဆိုသော ဆင်ဆိုးအား ၄က်ပျောသီးသုံးလုံး ကျွေးလိုက်၏။ ညာဘက်က အစွယ်တစ်ချောင်းသာရှိသော တယ်ဆင်မျိုးဖြစ်၏။ ကျွေးလိုက်သောအခါ အစွယ်မရှိသော ဘယ်ဘက်ကို လှည့်ပေး၏။

၁၉၄၅ အေဒီ ၁၉၄၅ ခု၊ စက်တင်ဘာလ ၂၇ ရက်၊ ကြာသပတေးနေ့ည (၁၃၀၇ ခုနှစ်၊ တော်သလင်းလဆုတ် ၆ ရက်နေ့) ဘူကစ်ခေါ်သော ဆင်တစ်ကောင်ရောက်လာပြီးလျှင် ကျောင်းအောက်ကနေ၍ ဘုန်းကြီးခြေထောက်ကို လာ၍နမ်းကြည့်၏။ ၁၃၀၇ ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၆ ရက်နေ့ ဆင်ဆိုးသိန်းတန်ရောက်လာ၏။ ၎င်း ၅ ရက်နေ့ ဟိုင်းကြီးတစ်ကောင်ရောက်လာပြန်၍ ခေါ်သောအခါ တည့်တည့်လာ၏။

၁၉၄၅ အေဒီ ၁၉၄၅ ခု၊ နိုဝင်ဘာလ ၂၀ ရက်၊ အင်္ဂါနေ့ (၁၃၀၇ ခုနှစ် တန်ဆောင်မုန်းလဆုတ် ၁ ရက်နေ့) တုတ်ကြီးခေါ် တယ်ဆင်တစ်ကောင် ကျောင်းသို့ရောက်လာ၏။ ၎င်း ၆ ရက်နေ့ ဆင်မကြီးနှင့် တုတ်ကြီးလာပြန်၏။ ၎င်းသူဌေးဆင် ၇ ကောင်တို့နှင့် အမျိုးမျိုးတွေ့ကြုံခဲ့ရသေး၏။ ၎င်းသူဌေးဆင် ၇ ကောင်အနက် သိန်းတန်တစ်ကောင်သာလျှင် ဆင်ဆိုးဖြစ်သည်။

၁၉၄၅ အေဒီ ၁၉၄၅ ခု၊ မတ်လ ၄ ရက်၊ တနင်္လာနေ့ (၁၃၀၇ ခုနှစ် တပေါင်းလဆန်း ၂ ရက်နေ့) ညနေ ၄ နာရီအချိန်တွင် ဆင်ဆိုးသိန်းတန်သည် ကျောင်းသို့ အထူးလာပြီးလျှင် ကျောင်းကိုတစ်ပတ်လှည့်ပြီး သင်္ကန်းကို နမ်းကြည့်ကာ ဖိနပ်ကို နမ်းကြည့်ပြီး ထွက်သွား၏။

၁၉၅၀-၁၉၆၀ **အေဒီ ၁၉၅၀ - ၁၉၆၀ ခု (၁၃၁၂ ခုနှစ်ကစပြီး ယခု ၁၃၂၁ ခုနှစ်) အထိ ကိလေသာထကြွလာသောအခါ တစ်ခါမျှမရှိဖူးဘူး၊ ကိလေသာ စိတ်ဖြစ်ပေါ်လာသော အခါလည်း တစ်ခါဖူးမျှ မရှိခဲ့ဖူးဘူး၊ ဤကဲ့သို့သောအကြောင်းတို့ကို နတ်ကြီးများတို့က သိရှိ၍ ဒေးပရိမ်းသရက်တောက တောရ ကျောင်းဘုန်းကြီး ဦးသုန္ဒရကို သွားပြောလားမသိဘူး။ ၎င်း ဦးသုန္ဒသည် ရန်ကုန်ကန်ဘဲ့သား ဇာတိဖြစ်၏။**

## ကိုယ်တွေ့ပုဂ္ဂိုလ်များ၏ လျှောက်ထားချက်

၁၉၅၁ အေဒီ၁၉၅၁ ခု၊ (၁၃၁၃ ခုနှစ်) ကျုံကရွာ ဦးရွှေရင်ကတစ်ကြိမ်၊ သောင်းစိန်က တစ်ကြိမ်၊ လာရောက်လျှောက်ကြသည်မှာ 'မော်လမြိုင်မီးလောင်ပြင်၌ ဆွမ်းလာ၍ခံသည်ကို လူအများမြင်တွေ့ပါသည်ဘုရား'ဟု လျှောက်သွား၏။

၁၉၅၂ အေဒီ ၁၉၅၂ ခု ၊ (၁၃၁၄ ခုနှစ်၊ ကျုံကရွာ မောင်ထွန်းအောင် လာလျှောက်သည်မှာ ရွာထဲက လူအများအပြားဆိုနေကြသည်မှာ 'သပိတ်အိုင်ဘုန်းကြီးကို



သထုံ၌ ဆွမ်းခံကြွလာသည်ကို တွေ့မြင်သူက အသေအချာ တွေ့မြင်ရပါ၏' ဟု လျှောက်သွား၏။ တွေ့မြင်သူဆိုသူမှာ ကျိုက်ထရွာသား အသက် ၁၆ နှစ်ရှိ ကိုရင်ကလေး အာလောက၊ လူအမည် မောင်အောင်ဖြစ်သည်။ မောင်ခင်၊ မနန်းပိုက်၏သားဖြစ်၏။ ကိုရင်ဝတ်နှင့် သထုံမှန်ကျောင်း၌နေ၏။

၁၉၅၃ အေဒီ ၁၉၅၃ ခု ၊ (၁၃၁၅ ခုနှစ်)တွင် ဦးပဥ္စင်းထွန်းအေးလျှောက်သည်မှာ 'ရွာထဲမှာ ပြောသံဆိုသံ ကြားရသည်မှာ သပိတ်အိုင်ဘုန်းကြီးကို ဘီလူးကျွန်းသို့ ဆွမ်းခံကြွလာ သည်ကို ဥတ္တမကျော်ကိုယ်တိုင် မြင်တွေ့ရပါ၏' ဟု လျှောက်သွား၏။

၁၉၅၃ အေဒီ ၁၉၅၃ ခု၊ အောက်တိုဘာလ ၁၄ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၁၅ ခုနှစ် သီတင်းကျွတ်လဆန်း ၆ ရက်နေ့) ည ၇ နာရီအချိန် တရားအားထုတ်နေစဉ် အောက်နတ်ကလေးများတောင် မဟုတ်ဘူး၊ နတ်ကြီးများက ကောင်းကင်မှ လာပြီးလျှင် ကြိုးစားအားထုတ်ပါ။ စိတ်မလျှော့လိုက်ပါနှင့်၊ သပိတ်အိုင်ဆရာ တော်ဖြင့် ရဟန္တာဖြစ်သွားပြီဟု ပြောသွား၏။

၁၉၅၄ အေဒီ ၁၉၅၄ ခု၊ မေလ (၁၃၁၆ ခုနှစ်၊ ကဆုန်လဆန်း)က စန်းမောင်အား သပိတ်အိုင် ဆရာတော်က မေးသည်မှာ 'ငါ့သတင်းကို မင်းတို့ရွာထဲ၌ ဘာများ ပြောဆိုသံကြားရသလဲ'ဟု မေးသောအခါ ယခင် ၂ နှစ်လောက်က အမေ့ကို မုတ္တမ လူအများကမေးကြ၏။ သပိတ်အိုင်ဘုန်းကြီးဟာ ကျိုက်ထရွာမှာ ရှိရဲ့လား ဟုမေးလျှင် 'ရှိတယ်လေ၊ ဘယ်ကိုမှမသွားဘူး၊ နေ့စဉ်ဆွမ်းခံလာနေသည်ကို မပျက်မကွက်မြင်ရ၏'ဟု အမေက ပြန်ပြောရာ 'ဒီမှာလည်း ဆွမ်းခံကြွလာသည် ကို တွေ့မြင်ရ၏'ဟု လူအများက အမေ့ကို ပြောပြကြောင်း စန်းမောင် လျှောက် သွားသည်။

၁၉၅၄ အေဒီ ၁၉၅၄ ခု၊ ဇူလိုင်လ ၂၉ ရက်၊ ကြာသပတေးနေ့ (၁၃၁၆ ခုနှစ်၊ ဝါဆိုလဆုတ် ၁၄ ရက်နေ့) 'ကျွဲခြံရွာသို့ သပိတ်အိုင်တောရဆရာတော် ဆွမ်းခံ ကြွလာသည်ကို တွေ့မြင်ရ၏'ဟု ကျွဲခြံရွာက လူအများပြောဆိုသံကို ကျိုက်ထရွာ သုံးအိမ်စုနေ ကိုစိန်ညွန့်က လျှောက်သွား၏။

၁၉၅၄ အေဒီ ၁၉၅၄ ခု၊ ဧပြီလ ၁၃ ရက်၊ အင်္ဂါနေ့ (၁၃၁၆ ခုနှစ် တန်ခူးလဆန်း ၁၀ ရက်နေ့) ဦးပဥ္စင်းမောင်ဧ၊ လူမောင်တို့ အကန်တော့လာကြရာ 'ကဒါက ဈေးကြို ဒါယိကာမကြီးများ ပြောပြသွားသည်မှာ သပိတ်အိုင်ဆရာတော် ကဒါရွာကို မကြာမကြာ ဆွမ်းခံကြွလာသည်ကို တွေ့မြင်ရ၏'ဟု လျှောက်သွား၏။

၁၉၅၄ အေဒီ ၁၉၅၄ ခု၊ အောက်တိုဘာ ၃ ရက်၊ တနင်္ဂနွေနေ့ (၁၃၁၆ ခုနှစ်၊ သီတင်း ကျွတ်လဆန်း ၆ ရက်နေ့) ညနေ ၇ နာရီအချိန် တရားအားထုတ်နေစဉ် အောက်နတ်ကလေးများတောင်မဟုတ်ပါဘူး။ နတ်ကြီးများက ကောင်းကင်မှ လာပြီးလျှင် ကြိုးစားအားထုတ်ပါ။ စိတ်မလျှော့လိုက်ပါနှင့် သပိတ်အိုင်ဆရာ တော်ဖြင့် ရဟန္တာဖြစ်သွားပြီဟု ပြောသွားသည့်အကြောင်းကို တပည့်တော်တို့ ကို ပြောပြပါသည်ဘုရားဟု လျှောက်သွား၏။

၁၉၅၅ အေဒီ ၁၉၅၅ ခု၊ အောက်တိုဘာလ(၁၃၁၇ ခုနှစ်၊ သီတင်းကျွတ်လ)က လူဝတ်နှင့် ကျောင်းသို့ရောက်လာသောအခါ 'ငါ့သထုံကို ဆွမ်းခံကြွလာသည်ကို မင်းမြင်သဆို'ဟု မေးသောအခါ မြင်ပါသည်ဘုရားဟု လျှောက်သွား၏။



၁၉၅၅ အေဒီ ၁၉၅၅ခု ၊ ဧပြီလ၊ မေလ၊ ဇွန်လ၊ စက်တင်ဘာလ၊ အောက်တိုဘာလ (၁၃၁၇ ခုနှစ် ကဆုန်လနှင့် နယုန်လ၊ တော်သလင်းလ)အတွင်း သာယာကုန်း၊ ပန်းကုန်းက လူအများဖူးမြော် လာရောက်ကြသည်မှာ ငါးကြိမ်ရှိသွား၏။ ၎င်းနှစ် ပထမဝါဆိုလ ဆန်း (၄) ရက်နေ့က ကျုံကရွာနေ မောင်ပွ၊ မစန်းတင်တို့ လျှောက်သွားသည်မှာ 'ပန်းကုန်းကလူအများတို့ ပြောပြသွားပါသည်၊ ပန်းကုန်းရွာသို့ မကြာမကြာ ဆွမ်းခံကြွလာသည်ကို တွေ့မြင်ရ၏' ဟု လျှောက်သွား၏။

၁၉၅၅ အေဒီ ၁၉၅၅ ခု၊ ဒီဇင်ဘာလ ၇ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၁၇ ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၈ ရက်နေ့)လက်ပန်က လူအများလာကန်တော့ကြ၏။ ဝါတွင်းက လက်ပန်သို့ ဆွမ်းခံကြွလာသည်ကို တွေ့မြင်ရသူက တွေ့မြင်ရပါ၏ဟု လျှောက်သွား၏။

၁၉၅၅ အေဒီ ၁၉၅၅ ခု၊ နိုဝင်ဘာလ (၁၃၁၇ ခုနှစ် သီတင်းကျွတ်လဆုတ်)၌ ကျုံကတောတောင်တို့၌ တောရကျောင်း ဘုန်းကြီး ၇ ပါးတို့သည် အကန်တော့ခံလာကြရာတွင် သပိတ်အိုင်ဆရာတော် မေးမြန်းလိုက်၏။ ကိလေသာ ထကြွသောအခါ နတ်များ သိနိုင်မလား၊ မသိနိုင်ဘူးလားဟု မေးသောအခါ သိနိုင်မှာပေါ့ဘုရားဟု ပြောဆို၏။

၁၉၅၆ အေဒီ ၁၉၅၆ ခု၊ ဇူလိုင်လ ၂၂ ရက်၊ တနင်္ဂနွေနေ့ (၁၃၁၈ ခုနှစ်၊ ဝါဆိုလဆန်း ၁၅ ရက်နေ့)တွင် ကွဲခြံရွာ ဇေိနိစသော လူတစ်စုတို့ လာရောက်ကန်တော့ကြရာတွင် ဇေိနိ ၁၄ ရက်နေ့က တပည့်တော်အိမ်မှာ ဆွမ်းကျွေးရာ လူအချို့ပြောဆိုနေကြသည်မှာ 'သပိတ်အိုင်ဘုန်းကြီးကို အလံတစ်ရာ ဘုရားမှာ ဆွမ်းခံလာသည်ကို တွေ့မြင်နေရ၏'ဟု ပြောကြဆိုသံကို ကြားရပါ၏ဟု လျှောက်သွား၏။

၁၉၅၆ အေဒီ ၁၉၅၆ ခု၊ မေလ ၁၈ ရက်၊ သောကြာနေ့ (၁၃၁၈ ခုနှစ် ကဆုန်လဆန်း ၉ ရက်နေ့)တွင် သရက်တောဘုန်းတော်ကြီးရောက်လာ၍ ဘုန်းကြီးတပည့်တော်ကို ဖူးတွေ့ရပြီးပါပြီဟု သတင်းပြန့်ပို့တာတော့ မှန်ပါပြီ ဘုန်းကြီးဖူးတွေ့ရသော ဘုန်းကြီးဟာ တပည့်တော်ဟုတ်ရဲ့လားဟု မေးသောအခါ ဟုတ်ပါတယ်။ ဒီအတိုင်းပါပဲ၊ နည်းနည်းမှ မလွဲပါဘူးဟုပြောသွား၏။ ဘုန်းကြီးကို နတ်ကြီးများက ပြော့သွားသည် ဆိုသည်မှာ ဘုန်းကြီးဘာလုပ်နေတုန်းလဲ၊ ဘယ်နှစ်ကလဲ၊ ဘယ်ကလာတာတဲ၊ ဘယ်ရက်ကလဲဟု မေးသောအခါ -

၁၉၅၇ အေဒီ ၁၉၅၇ ခု၊ ဒီဇင်ဘာလ ၇ ရက်၊ စနေနေ့ (၁၃၁၉ ခုနှစ် နတ်တော်လဆုတ် ၁ ရက်နေ့) မော်လမြိုင်၊ မုပွန်ကျောက်တန်းက ဦးသူရိယနှင့် ဦးတေဇနိယတို့ လာကြရာ ဦးတေဇနိယ ပြောသွားသည်မှာ 'သပိတ်အိုင်ဆရာတော် ရန်ကုန်သို့ ဆွမ်းခံလာ၍ မုန့်နှင့်သစ်သီး လောင်းလှူလိုက်ပါ၏' ဟုလောင်းလှူလိုက်ရသော ဒါယကာများက ပြောသောအခါ ဒီက ဒါယကာများကို စုံစမ်းကြည့်ရှုရာ ဒီမှာလည်း အမြဲမပြတ်ရှိနေကြောင်းကို သိရ၏ဟု ပြောသွား၏။ သပိတ်အိုင်ဆရာတော်က အဲသည့်အခါတုန်းကတော့ မုန့်နှင့်သစ်သီး စားရပါသည်ဟု ပြောပြလိုက်၏။ စားရပုံကတော့ လူတစ်ယောက်က သုံးအိမ်စုရွာနေ မောင်ထွန်းရှိန်၊ မဖွားတင့်တို့၏ အိမ်သို့ ရန်ကုန်က ပို့လိုက်ပါသည်။ 'သပိတ်အိုင်ဆရာတော် ဆွမ်းခံကြွလာသောအခါ လောင်းလိုက်ပါ' ဟုပြောဆိုပြီး ပြန်လှည့်သွား၏။ မုန့်ကား ချိဇာကိတ် ၈ လုံး သစ်တော်သီး ၃ လုံး၊ စပျစ်သီးမှည့်အတွဲကြီး တစ်တွဲ၊ လာပို့သူကို မှတ်မိရဲ့လားဟု မေးသောအခါ မမှတ်မိဘူးဟု ပြောဆို၏။



၁၉၅၈ အေဒီ ၁၉၅၈ ခု၊ စက်တင်ဘာလ ၂၇ ရက်၊ စနေနေ့ (၁၃၂၀ ခုနှစ်၊ တော်သလင်းလဆန်း ၁၅ ရက်နေ့) ကျုံကရွာ မောင်အေးတို့လာကြရာ မောင်အေး လျှောက်သွားသည်မှာ 'မိုးဦးကျအခါတုန်းက ဘီလူးကျွန်းက မောင်ကျော်ပြောပြသွားသည်မှာ ဘီလူးကျွန်းသို့ သပိတ်အိုင်ဆရာတော် ဆွမ်းခံကြွလာ၍ သပိတ်အတွင်း မုန့်နှင့် သစ်သီးများတောင် တွေ့မြင်လိုက်ရပါသေး၏'ဟု လျှောက်သွား၏။

(မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၂၂)၊ ၂၉-၈-၂၀၀၅။)

သရက်တောဘုန်းကြီးသည် သပိတ်အိုင်ကို ဘုန်းကြီးလည်း သွားချင်သည်ဟု ပြောဆိုသော စကားများတို့ကိုလည်းလျှောက်သွား၏။ ဒါယကာကြီးတို့ ပြန်သွားသောအခါ လျှောက်လိုက်ပါ။ အရေးတကြီးမလာပါနှင့်၊ နောင်ကို တွေ့မြင်ရပါလိမ့်မည်ဟု လျှောက်လိုက်ပါဟု မှာကြားလိုက်ပြီး သည့်နောက် ၃ ရက်ကြာသောအခါ သပိတ်အိုင်ဆရာတော်ကို ကျောင်းအတွင်းမှာပင်လျှင် ဖူးတွေ့ရပြီး ပါပြီဟု သတင်းပြန်ပို့လိုက်၏။

၁၉၆၀ အေဒီ ၁၉၆၀ ခု၊ ဧပြီလ ၁၇ ရက်၊ တနင်္ဂနွေနေ့ (၁၃၂၂ ခုနှစ် တန်ခူးလဆုတ် ၇ ရက်နေ့)၌ အလယ်ရွာကနေ အချောဆိုသူလာ၍ လျှောက်သွားသည်မှာ တပည့်တော်ရွာက သီလရှင်ကြီးတစ်ယောက် မုကျိုပေါ်တော်မူဘုရား၏ ဇရပ်တစ်ခု၌ နေ၍ နံနက် အရုဏ်ဆွမ်းတော်တင်ကပ်လျက် နေလာရာ တပေါင်းလဆုတ်ကစ၍ ဆွမ်းတော်တင်သောအချိန် ကျရောက်သောအခါနေ့စဉ် ကြွရောက်လာသည်။ သင်္ကြန် ကျခါနီး၍ အလယ်ရွာသို့ တန်ခူးလမပြည့်ခင် ပြန်လာသောအခါ အချောကို ပြောပြ သည်ဟု လျှောက်သွား၏။

၁၉၆၀ အေဒီ ၁၉၆၀ ခု၊ ဒီဇင်ဘာလ (၁၃၂၂ ခုနှစ် ပြာသိုလ)တွင် အုတ်တံတားက မောင်ထွန်းအုံး လျှောက်သွားသည်မှာ ဇင်းကျိုက်က ဒေါ်ခင်ထား ပြောသည်မှာ သပိတ်အိုင်ဆရာတော်ကို ငါတို့အိမ်၌ သေသေချာချာဖူးတွေ့ရ၏ဟု ပြောသောအခါ ထွန်းအုံးက ကျွန်တော်တို့တော့ ကျောင်းကို အရောက်သွားမှ ဖူးတွေ့ရတာပဲ။ ခင်ဗျားတို့လိုတော့ အိမ်၌ သေသေချာချာ မဖူးတွေ့ရဘူးဟု ပြန်ပြောလိုက်ရ၏ဟု လျှောက်သွား၏။ ထိုအခါ သပိတ်အိုင်ဆရာတော်က အာရုံအထားကောင်းလျှင် တွေ့တတ်သည် ထုတ်ပြောသောအခါ တပည့်တော်တို့လည်း အာရုံထားတာပါပဲဟု လျှောက်ပြန်၏။ မင်းတို့ထားပုံမျိုးနှင့် မတူဘဲဖြစ်လိမ့်မည်ဟု ပြောလိုက်၏။

၁၉၆၁ အေဒီ ၁၉၆၁ ခု၊ ဖေဖော်ဝါရီလ ၁၈ ရက်၊ စနေနေ့ (၁၃၂၂ ခုနှစ် တပေါင်းလဆန်း ၅ ရက်နေ့)တွင် ဆီဆုံရွာက ဒါယိကာမကြီးလျှောက်သွားသည်မှာ တပည့်တော်တို့ ဆီဆုံရွာကို ဆွမ်းခံလာ၍ ဆွမ်းလောင်းလိုက်ရပါသည်ဟုလျှောက်သွား၏။

၁၉၆၂ အေဒီ ၁၉၆၂ ခု အောက်တိုဘာလ ၂၇ ရက်၊ စနေနေ့ (၁၃၂၄ ခုနှစ် သီတင်းကျွတ် လကွယ်နေ့) အောင်ရွှေလျှောက်သွားသည်မှာ ဒေါ်ပုဆေးလိပ်ရုံပိုင်ရှင် ဦးဖေသိန်းက ပြောပါသည်။ တစ်နေ့သောအခါ သပိတ်အိုင်ဆရာတော် ဆွမ်းခံကြွလာ၍ ဆွမ်း လောင်းလှူလိုက်ရပါ၏။ အကယ်၍များ နောက်တစ်နေ့ကြွလာလျှင် သင်္ကန်းဒွိစုံပါ လောင်းလိုက်ရဦးမည်ဟု နှလုံးပိုက်လျက်နေလာရာ တကယ်ပင် ကြွလာသောကြောင့် သင်္ကန်းဒွိစုံနှင့် ဆွမ်းလောင်းလှူ လိုက်ရပါသည်ဟု အောင်ရွှေကို ပြောသည့် အကြောင်း အောင်ရွှေလျှောက်သွား၏။

၁၉၆၃ အေဒီ ၁၉၆၃ ခု၊ ဇန်နဝါရီလ ၁၇ ရက်၊ ကြာသပတေးနေ့ (၁၃၂၄ ခုနှစ် ပြာသိုလဆုတ် ၈ ရက်နေ့)တွင် ကသပက ဒါယိကာမကြီးများ လျှောက်သွားသည်မှာ



ကျိုက္ကော်သို့ သပိတ်အိုင်ဆရာတော် ဆွမ်းခံကြွလာသည်ကို တပည့်တော်တို့ တွေ့မြင်ရပါသည်ဘုရားဟု လျှောက်သွား၏။

ဤကဲ့သို့သော သတင်းအမျိုးမျိုးတို့သည် ရန်ကုန်သို့ ရောက်နေပြီဖြစ်သောကြောင့် ရန်ကုန်က လူအများတို့ ဖူးမြော်ရန်အလို့ငှာ ဘင်ဝက်က မောင်ကျွယ်ကို အပင့်ခိုင်းလိုက်၏။ လေယာဉ်ပျံနှင့် အသွားအပြန်ပို့ပေးပါမည်။ ကြွနိုင်ပါမည်လားဟု လျှောက်ကြားသောအခါ သပိတ်အိုင်ဆရာတော်က ဒီလိုသာ ငါ့ကို လူတောထဲသို့ပင့်လျှင် ငါမလိုက်နိုင်၊ လူတောထဲသို့ ပင့်တိုင်းပင့်တိုင်းလိုက်ချေက ငါ့မှာ အကျိုးဆုတ်ယုတ်လိမ့်မည်။ တရားဆိုသည်ကား သဒ္ဓါရယ်၊ ဝီရိယရယ်၊ ပညာရယ်၊ သမာဓိရယ် ဤတရားလေးပါးနှင့် ညီညွတ်လျှင် တရားအထူးကို ရနိုင်သည်။ ဤတရားလေးပါးကို မညီညွတ်လျှင် တရား အထူးကို မရနိုင်။ ညီတော်အာနန္ဒာ တရားရပုံကို ကြည့်ပါလား။ လူတောထဲသို့ လိုက်၍ လူအများ၏ အကြည်အညိုကို လိုက်ခံနေက ဤတရားလေးပါးနှင့် ညီညွတ်နိုင်ပါမည်လောဟု မိန့်တော်မူ၏။

ဤကား ရဟန္တာဖြစ်တာ နတ်တွေက သိကြကြောင်း အကျော်ဒေးယျ ရှိတော်မူခဲ့သော သပိတ်အိုင်တောရ ဆရာတော် ဦးကိတ္တိကိုယ်တော်မြတ်ကြီးအကြောင်း မှတ်သားထားသမျှ ထပ်ဆင့်ပူဇော်ခြင်းသာဖြစ်ပါ၏။

(ကျမ်းကိုး၊ အကျယ်သိလိုသူများသည် ပိဋကဗျူဟာအဖွဲ့၏ (၁၅) အုပ်မြောက်စာအုပ်။ ပိဋကဗျူဟာ အဖွဲ့ကြီး၏ ဩဝါဒစရိယ အဘိဇမဟာရဋ္ဌဂုရု ဘဒ္ဒန္တ ပညိန္ဒာဘိဝံသ ကိုယ်တော်မြတ်ကြီး၏ ဩဝါဒကထာ။ ပိဋကဗျူဟာအဖွဲ့ ဥက္ကဋ္ဌ ဦးပွ၏ အမှာစာ၊ ဝဏ္ဏကျော်ထင် ဦးဘသိန်း၏ သပိတ်အိုင် တောရ ဆရာတော်ဘုရား အတ္ထုပ္ပတ္တိကို ဖတ်ရှုပါ)

(မောင်ပန်းမွှေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၂၁)၊ ၂၂-၈-၂၀၀၅။)

(မောင်ပန်းမွှေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၂၂)၊ ၂၉-၈-၂၀၀၅။)

(ကျမ်းကိုး၊ မောင်ပန်းမွှေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၂၃)၊ ၅-၉-၂၀၀၅။)

၁၉၆၉ ဆရာတော်သည် သက်တော် ၇၆၊ သိက္ခာတော် ၅၆ ဝါအရ၊ ၁၉၆၉ ခုနှစ်၊ အောက်တိုဘာ ၂၂ ရက် ဗုဒ္ဓဟူးနေ့တွင် သပိတ်အိုင်တောရ၌ တစ်ဘဝ တစ်ခန်းသာ ချုပ်ငြိမ်းပါသည်ဟု သိရပါသည်။

ဝက်ဝံများကလာ၍ ပျားရည်လှူဒါန်းသည့် ဖြစ်ရပ်ဆန်းများနှင့်အတူ

# မကွေးတိုင်းဒေသကြီး ငဖဲမြို့ ဇင်ပြွန်းဆရာတော် ဦးသာမိန

အေဒီ ၁၈၉၄ – ၁၉၉၂ ( ၁၂၅၆ – ၁၃၅၄ )





ထိုဆရာတော်ကြီးအကြောင်းကို များစွာမသိရသော်လည်း မှတ်တမ်းတင်မထားလျှင် မြန်မာနိုင်ငံ၏ သာသနာ့သမိုင်းတွင် စာတစ်မျက်နှာလျော့သွားမည်ဖြစ်သဖြင့် ရသမျှမှတ်တမ်းတင်လိုက်ပါသည်။

၁၉၉၃ ထိုဇင်ပြွန်းဆရာတော်ကြီးမှာ ၁၉၉၃ ခုနှစ်၊ ဇန်နဝါရီလ ၁၀ ရက်၊ (၁၃၅၄ ခု ပြာသိုလဆုတ် ၄ ရက်) တနင်္လာနေ့ ညနေ ၆ နာရီ ၁၀ မိနစ်တွင် တစ်ခန္ဓာ ဇာတ်သိမ်း၍ ခန္ဓာဝန်ချသွားတော်မူပြီးဖြစ်ပါသည်။ ထိုစဉ်က ဆရာတော်ကြီးသည် သက်တော် ၉၈ နှစ် ရှိပြီးဖြစ်ပါသည်။

ထိုအကြောင်းတို့ကို လှည့်လည်စုံစမ်းရာ များစွာရှာဖွေ၍မရပါ။ သိရသမျှမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

၁၈၉၄ ဆရာတော်ကြီးကို အေဒီ ၁၈၉၄၊ ဒီဇင်ဘာ ၃၀ ရက် (၁၂၅၆ ခု ပြာသိုလဆန်း ၆ ရက်) သောကြာနေ့တွင် ဖွားမြင်တော်မူကြောင်း သိရပါသည်။ မိခင် ဖခင်တို့မှာ ဦးနောက်တိုး ဒေါ်ပုံတုတ်တို့ဖြစ်ကြောင်း သိရပါသည်။

(မှတ်ချက်။ ၁၈၉၄ ခု၊ ဒီဇင်ဘာလ ၃၀ ရက်မှာ တနင်္လာနေ့ဖြစ်သည်ဟု တွေ့ရှိရပါသည်။ ကျမ်းကိုး။ ပညာ့အလင်းပြ အင်္ဂလိပ် မြန်မာ နှစ်တစ်ရာ ပြက္ခဒိန် ၁၂၂၅မှ ၁၃၂၉၊ (၁၉၆၆ ခု) ပညာ့အလင်းပြ ပုံနှိပ်တိုက်၊ စာ ၁၈၆ ကို ကြည့်ပါ။)

ဇာတိရွာမှာ အနောက်ဖျား လှေ့စင်ရွာဖြစ်ကြောင်းသိရပါသည်။ အမည်ဆန်းသဖြင့် ဆက်၍ စုံစမ်းရာ လှေ့စင်ရွာမှာ အထက်မင်းလှမြို့နယ် မကွေးတိုင်းဒေသကြီးတွင်ရှိကြောင်းသိရပါသည်။

မွေးချင်း ၇ ယောက်ရှိကြောင်း စုံစမ်းရရှိပါသည်။ ထိုမွေးချင်းတို့၏ အမည်များမှာ ၁။ ကိုကံ၊ ၂။ ကိုညဏ်၊ ၃။ ဒေါ်လှ၊ ၄။ ကိုသာဟန်၊ ၅။ ဒေါ်ဝ၊ ၆။ ဒေါ်ပန်းမွှေး၊ ၇။ ကိုပန်းအေး ဟူ၍ ဖြစ်ကြောင်း သိရပါသည်။

အမှတ်စဉ် ၄ ကိုသာဟန်သည် နောင်သောအခါ ဦးသာဓိန ဖြစ်လာ၏။ ဦးသာဓိနသည် မကွေးတိုင်းဒေသကြီး ငဖဲမြို့ ဇင်ပြွန်းတိုက်ကျောင်း ဆရာတော်ကြီးဖြစ်လာလေသည်။

ဖခင်ကြီး ကွယ်လွန်သောအခါ မောင်သာဟန်သည် အသက် ၁၁ နှစ်ရှိပြီဟု ဆိုပါသည်။ လယ်ယာလုပ်ငန်းဖြင့် အသက်မွေးဝမ်းကျောင်းပြုကြောင်းသိရပါသည်။ ထိုစဉ်က ငဖဲမြို့နယ်၊ ပျံချီရွာတွင် နေထိုင်ကြောင်းသိရပါသည်။ ထို့ကြောင့် ထိုပျံချီရွာကျောင်းဆရာတော် ဦးပညာဇောတထံတွင် ပညာ သင်ကြားခဲ့ကြောင်း သိရပါသည်။ ထိုကျောင်းမှာ ၂ နှစ်ခန့် စာသင်ကြားခဲ့ကြောင်းသိရပါသည်။ မင်းလှမြို့နယ် အောက်ကိုင်းရွာတွင်နေစဉ် ဆရာတော်ဦးဇိနထံတွင် ပညာသင်ကြားခဲ့သည်ဟုဆိုပါသည်။

မောင်သာဟန်သည် အဓိဋ္ဌာန်ပြုသည်ဟူသောစကားကို ငယ်စဉ်ကတည်းကပင် သိခဲ့သည်ဟု ဆိုနိုင်ပါသည်။ အဘယ်ကြောင့်ဆိုသော် ငယ်စဉ်ကာလက နွားကျောင်းနေစဉ် ဖြစ်ပျက်ခဲ့သော ဖြစ်ရပ်ဆန်းတစ်ခုကြောင့်ဖြစ်သည်ဟု ဆိုကြပါသည်။ ဖြစ်ပုံမှာ ဤသို့ဖြစ်ပါသည်။

နွားကျောင်းနေစဉ် နွားကရှေ့မှသွား၏။ မောင်သာဟန်က နောက်မှလိုက်၏။ နွားက ရှေ့မှာရှိသော ဝါးရုံပင်ကိုတိုးဝှေ့၍ သွားလိုက်သောအခါ နောက်နားက တိုးဝင်သွားသောမောင်သာဟန်၏ မျက်လုံးကို ဝါးကိုင်းကရိုက်မိသည်ဟုဆိုပါသည်။ ထိုအခါ ဘယ်ဘက်မျက်လုံးကြီး ဖူးဖူးရောင်လာသဖြင့် နွားနောက်သို့ မလိုက်နိုင်တော့ဘဲ နေခဲ့ရလေသည်။ ထိုအခါ မောင်သာဟန်သည် အဓိဋ္ဌာန်ပြုသည် ဆိုပါ၏။ အလွန်ဆန်းကြယ်၏။ ပြုပုံမှာ ဤသို့ဖြစ်ပါသည်။

အကယ်၍ ငါသည် ငယ်ငယ်တုန်းကတည်းက စိတ်ကူးထားသည့်အတိုင်း နောင်သော



အခါ ဘုန်းကြီးရဟန်းဖြစ်မည် ကေန်ဖြစ်ပါက ငါ၏မျက်စိသည် မကြာချက်ချင်း လင်းစေသတည်းဟူ၍ဖြစ်ပါသည်။ ထိုသို့ အဓိဋ္ဌာန်လိုက်သောအခါ လမ်းလျှောက်သွားစဉ်မှာပင် ပကတိအကောင်းအတိုင်း ဖြစ်သွားသည်ဟုဆိုပါသည်။ ထိုကတည်းက မောင်သာဟန်သည် အဓိဋ္ဌာန်ပြုသည်ဟူသောစကားကို ငယ်စဉ်ကတည်းကပင် သိခဲ့သည်ဟုဆိုနိုင်ပါသည်။

၁၉၁၅ မောင်သာဟန်သည် အေဒီ ၁၉၁၅ ခု၊ နိုဝင်ဘာလ ၂၁ ရက်၊ တနင်္ဂနွေနေ့ (၁၂၇၇ ခုနှစ် တန်ဆောင်မုန်းလပြည့်နေ့)တွင် ရဟန်းဘဝသို့ ရောက်ရှိခဲ့လေသည်။ ထိုစဉ်က အသက် ၂၀ ပြည့်ရန် ၃ လမျှ လိုသေးသည်ဟု ဆိုပါသည်။ ထိုအချိန်တွင် ငယ်ဆရာဖြစ်သော အောက်ကိုင်းရွာဆရာတော်ကြီး ဦးဇိနကို ဥပဇ္ဈာယ်ပြု၍ ပျံချီကျောင်းရှိ ခဏ္ဍာသိမ်တော်တွင် ရဟန်းဒါယကာ ဦးသက်ရှည် ဒေါ်သင်းအုံတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဘဝသို့ ရောက်ရှိသည်ဟု သိရပါသည်။

၁၉၁၉ အေဒီ ၁၉၁၉ ခု၊ (၁၂၈၀ ပြည့်နှစ်)တွင် စလင်းမြို့ကို မီးလောင်သဖြင့် မိမိနေရပ်သို့ ခဏပြန်လာသည်ဟု သိရပါသည်။ ထိုစဉ်က မောင်ပဉ္စင်းဖြစ်သူ ဦးသာဓိနသည် စလင်းမြို့ မဟာဝိသုတာရာမ ကျောင်းတိုက်တွင် စာပေပညာသင်ကြားနေသည်ဟု ဆိုပါသည်။

၁၉၁၉ အေဒီ ၁၉၁၉ ခု၊ (၁၂၈၀ ပြည့်နှစ်)တွင် စလင်းမြို့တွင် အဖျားကြီးရောဂါ ပုလိပ်ရောဂါ စသည်တို့ ဖြစ်ပွားနေသည်ဟုဆိုပါသည်။ ထိုစဉ် စလင်းမှာ မီးကြီးလောင်သဖြင့် နေရပ်သို့ ပြန်ခဲ့ခြင်းဖြစ်လေသည်။

ထိုမှတစ်ဆင့် မန္တလေးသို့သွားရန် ကြံရွယ်ခဲ့သော်လည်း မန္တလေးတွင် ဝမ်းရောဂါများဖြစ်ပွားနေကြောင်းသိရှိရသဖြင့် မန္တလေးသို့ မကြွဖြစ်တော့ဟုဆိုပါသည်။ ထို့ကြောင့် မင်းဘူးမှတစ်ဆင့် ရန်ကုန်သို့ ရောက်ရှိခဲ့ကြောင်း ရန်ကုန်တွင် ကြည့်မြင်တိုင်ရှိ ဇေယျဝတီကျောင်းတိုက်တွင် ခေတ္တတည်းခိုခဲ့ကြောင်း သိရပါသည်။

ထို့နောက် မူလကြံရွယ်ရင်းအတိုင်း မန္တလေးသို့ ကြွသွားခဲ့ပြန်သည်ဟု ဆိုပါသည်။ သို့သော်လည်း ထိုစဉ်က မန္တလေးတွင် ဝမ်းရောဂါသာမက ကျောက်ရောဂါ၊ ဝက်သက် ရောဂါများပါ ဖြစ်ပွားလျက် ကပ်ဆိုက်သော သဘောမျိုးဖြစ်ကြောင်း ဆိုကြပါသည်။ ထိုစဉ်က မင်းကွန်း ဒက္ခိဏာရာမကျောင်းတိုက်တွင် တည်းခိုခဲ့ကြောင်း သိရပါသည်။

၎င်းနောက် မင်းဘူးသို့ ပြန်လာပြန်သည်။ ချမ်းသာကြီးတိုက်တွင် စာဝါများ ပို့ချနေခဲ့ပြန်သည်။ ၎င်းနောက် မန္တလေးကို သံယောဇဉ်မဖြတ်နိုင်ဘဲ မန္တလေးမြို့ ဘုရားကြီး လယ်ပေါ် အုတ်တိုက်ကျောင်းသို့ စာသင်ကြားရန် ကြွသွားပြန်သည်ဟု ဆိုပါသည်။ ထိုစဉ်တွင် မန္တလေးတွင် ပုလိပ်ရောဂါများ ဖြစ်ပွားဆဲဖြစ်သဖြင့် တစ်ဖက်ကလည်း စာပေပို့ချရင်း တစ်ဖက်ကလည်း ရောဂါဖိစီးနေသော သံဃာတော်များကို မရွံမရှာ ပြုစုစောင့်ရှောက်ခဲ့သေးကြောင်းသိရပါသည်။ သို့သော်လည်း ကျောင်းထိုင်ဆရာတော် ဦးဇာဂရက ဦးဇင်းလေးကို ရောဂါကူးမည်စိုးသဖြင့် နေရပ်သို့ ပြန်လွှတ်ခဲ့သည်ဟုဆိုပါသည်။

နေရပ်သို့ ရောက်ရှိပြန်ပြီးနောက် ဇင်ပြွန်းရွာသို့ ကြွရောက်တော်မူခဲ့ရပြန်သေးသည်ဟု ဆိုပါသည်။ အဘယ်ကြောင့်ဆိုသော် ချင်းတောင်ဘက် သူကြီးဦးဖိုးစောနှင့် တိုက်စာရေး ဦးဖိုးညွှာတို့၏ ပင့်လျှောက်ချက်ကို ထောက်ထားလက်ခံသောအားဖြင့် ဇင်ပြွန်းရွာသို့ ကြွခဲ့ကြောင်းသိရှိရပါသည်။

ဇင်ပြွန်းရွာသို့ ရောက်သောအခါ ဇင်ပြွန်းရွာမှာသာမက ချင်းအမျိုးသားများ နေထိုင်ကြသော



ဂုတ်ကြီးရွာ၊ နောင်ရွာ၊ လိုင်ရွာစသော ချင်းရွာများအထိ သာသနာပြုခရီးဆန့်ခဲ့ကြောင်းသိရပါသည်။

ထိုအချိန်မှစ၍ ဆရာတော် ဦးသာဓိနသည် တစ်သက်တာ ကာလပတ်လုံး တရားအားထုတ်ခြင်းဖြင့်သာ အချိန်ကုန်လွန်ခဲ့ကြောင်းသိရပါသည်။ တရားအားထုတ်သည့် နောက်ပိုင်းတွင် ဆရာတော်၏ ထေရုပ္ပတ္တိရုပ်ပုံလွှာတို့သည် အထူးကြည်ညိုဖွယ်ရာ အားကျဖွယ်ရာဖြစ်ကြောင်း သိရှိလာရသဖြင့် မှတ်တမ်းများ ရှာဖွေစုဆောင်းခဲ့ရပါသည်။ ဗုံးမပေါက်သော ဖြစ်ရပ်ဆန်းများကိုလည်း ကြားနာမှတ်သားရပါသည်။

ဆရာတော်ကြီးသည် စစ်အတွင်း ခေတ်ပျက်ကာလနှင့် ကြုံဆုံခဲ့ရသော်လည်း ပုဂ္ဂိုလ်ထူးတို့၏ ဖြစ်ရပ်ဆန်းများကို ကြားသိနေရသည့်သဘောအတိုင်း ဖြစ်ရပ်ဆန်းများ များစွာစုဆောင်းကြားနာခဲ့ရပါသည်။ ဗုံးဆန်များ ကျည်ဆံများသည် ဆရာတော်ကြီး သီတင်းသုံးရာကျောင်းသို့ မကျရောက်ခဲ့ခြင်းမှစ၍ အံ့ဖွယ်ဖြစ်ရပ်ဆန်းများရှိခဲ့ပါသည်။

ထိုဖြစ်ရပ်ဆန်းတို့၏ သဘောသွား ခပ်ဆင်ဆင် ပုံသဏ္ဌာန်မျိုးကို ပြည်မြို့ရတနာမာန်အောင် တောရကျောင်းနှင့်စပ်လျဉ်း၍လည်း ကျွန်ုပ်တို့ကြားနာခဲ့ရဖူးပါသည်။ ဗုံးမပေါက်သော ဆရာတော်ကြီးအဖြစ် ရတနာမာန်အောင်တောရ ဆရာတော်ကြီး ဦးဝိဇ္ဇာဗလသည် ပြည်မြို့တစ်ဝိုက်တွင် ဒုတိယကမ္ဘာစစ်အတွင်းက တွေ့ကြုံခဲ့ရကြောင်း ကျွန်ုပ်တို့ ဖတ်ရှုမှတ်သားခဲ့ဖူးပါသည်။

(ကျမ်းကိုး၊ ထိုအချက်ကို အပြည့်အစုံသိလိုလျှင် မောင်ပန်းမွှေး၏ ရွှေဖျိုင်းနားဆရာတော်ကြီး၏ ရာပြည့် ရုပ်ပုံလွှာတွင် ဖတ်ရှုနိုင်ပါသည်။ ၂၀၀၆ ခုနှစ်ထုတ် လမ်း ၅၀၊ အမှတ် ၁၉၉၊ တိုးဝင်းအောင် ပုံနှိပ်တိုက်တွင် ရိုက်နှိပ်သော ကမ္ဘာ့ရွှေရင်အေး ဆရာတော်ဘုရားကြီး မဟာရုပ်ပုံလွှာ စာအုပ်ကို ကြည့်ပါ။)

(ကျမ်းကိုး၊ ၎င်းအပြင် ဗုံးမပေါက်သော သဘောသဘာဝကို မိုးညှင်းသမ္ဗုဒ္ဓေ ဆရာတော်ကြီး၏ ထေရုပ္ပတ္တိရုပ်ပုံလွှာတွင် အထင်အရှားဖတ်ရှုနိုင်ပါသည်။ ထိုအကြောင်း တစေ့တစောင်း မိုးညှင်းသမ္ဗုဒ္ဓေ ဆရာတော်ကြီး၏ ဖြစ်ရပ်ဆန်းများအကြောင်းကို ၁၉၉၀ ခု ဇူလိုင်လ ဒုတိယအကြိမ်ထုတ် မိုးညှင်းမဟာထေရုပ္ပတ္တိကထာ အရှင်သုမန ဓမ္မာစရိယ၏ စာအုပ် စာမျက်နှာ ၂၆၀ - ၂၆၃ တို့ကိုကြည့်ပါ။ ယခုလည်း ထိုသို့သော ဖြစ်ရပ်ဆန်းများကို မကွေးတိုင်း ငဖဲမြို့ ဇင်ပြွန်းတိုက်ကျောင်း ဆရာတော်ကြီး ဦးသာဓိန (၁၂၅၆-၁၃၃၄) နှင့် စပ်လျဉ်း၍ ဖော်ပြလိုသော်လည်း စာမျက်နှာကို ငဲ့၍ ကျော်လွှားသွားပါမည်)

ဇင်ပြွန်းဆရာတော်ဘုရားကြီးမှာ ဗောဓိကုန်းတောရတွင် တောရဆောက်တည်နေစဉ်အခါက ညအခါကာလများတွင် ကျားကြီးများ လာရောက်၍ မေတ္တာရိပ်ကို ခိုလှုံကြသည်ကိုလည်းကောင်း၊ ကျားများသာမက ကျားသစ်များ၊ ဝက်ဝံများ၊ တောဝက်များလည်း အကာလညအခါများတွင် ဆရာတော်ကြီး၏ မေတ္တာရိပ်ကိုခိုလှုံလာကြောင်း စာတွေ့ငါတွေ့ ပုဂ္ဂိုလ်များက ပြောဆိုကြပါသည်။ ထိုအထဲတွင် မှတ်သားလောက်သော အချက်တစ်ခုမှာ ဂုတ်ကြီးရွာတွင် နေစဉ်ကာလကဖြစ်ပါသည်။

ဆရာတော်သည် အဆိုပါ ဂုတ်ကြီးရွာကို ဆွမ်းခံရွာအဖြစ် အမှီပြု၍ ကျောက်ကုတ်ကြီးအတွင်းတွင် ဝါတွင်းသုံးလပတ်လုံး မေတ္တာကမ္မဋ္ဌာန်းအလုပ်နှင့် သီတင်းသုံးနေထိုင်တော်မူစဉ် ဝက်ဝံကြီးတစ်ကောင်သည် ပျားကောင်များပါသော ပျားလပို့တစ်ခုကို ယူဆောင်လာပြီး ဆရာတော်အနီးတွင် လာရောက်ချထား လှူဒါန်းလေသည်။ ဆရာတော်က ပျားကောင်တွေပါ၍ အလှူမခံလိုကြောင်း လူစကားဖြင့်ပြော၍ ခေါင်းယမ်းပြသောအခါ ဝက်ဝံကြီးသည် ပျားလပို့ကိုယူ၍ ပြန်သွားပြီးနောက် မကြာမီ ပျားကောင်များမပါသည့် ပျားလပို့ကိုယူလာပြီး လှူဒါန်းခဲ့သည်။



ဆရာတော်က သနားလာသဖြင့် အလှူခံ၍ အသုံးပြုသောအခါ ဝက်ဝံကြီးသည် နှစ်သက်ဝမ်းမြောက်သော အမူအရာကိုပြ၍ ပြန်သွားလေသည်။ နောင်တွင်လည်း ဤကဲ့သို့ ရံဖန်ရံခါ လာရောက်လှူဒါန်းလေ့ရှိကြောင်း၊ ဝက်ဝံကဲ့သို့သော တောရိုင်းတိရစ္ဆာန်များသည် ဆရာတော်၏ မေတ္တာရိပ်ကိုခိုလှုံ၍ အနီးအပါးတွင် ကျောင်းသားများသဖွယ် နေထိုင်ကြကြောင်းနှင့် ဆန့်ကျင်ဘက် သတ္တဝါအချင်းချင်းလည်း ရန်မူလေ့မရှိကြကြောင်း လှူဒါန်းဖွယ်ရာများကိုလည်း လှူဒါန်းကြကြောင်း ကျော်ကြားမှု ရှိခဲ့ပေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ထိုအကြောင်းကို ဆရာတင်အောင်သွင်က မိမိ၏ အကျော်ဒေးယျ ဆရာတော်ကြီးများ၏ ဘဝဩဝါဒနှင့် ဖြစ်ရပ်ဆန်းများ စာအုပ်တွင် ဖော်ပြထားသဖြင့် သိသင့်သလောက် သိခဲ့ရပါသည်။)

၎င်းအပြင် အောက်ပါဖြစ်ရပ်မှန်တစ်ခုကိုလည်း မှတ်တမ်းတင်ထားကြောင်း သိရပါသေးသည်။

တစ်ခါသော် စာတက်ကူရွာနေ ဗိန္ဒောဆရာကြီး ဦးတုတ်မှိုင်း ဇင်ပြွန်းသို့ ကိစ္စတစ်ခုဖြင့် အလာ ပျံချီရွာအနီးတွင် ဆရာတော်ကြီးအား တွေ့ရှိ၍ ဝတ်ဖြည့်ပြီး ဘယ်ကိုကြွမည်နည်းဟု လျှောက်ထားရာ ဆရာတော်ကြီးက ပဒါန်းသို့ကြွမည်ဟု မိန့်ကြားပြီး ဆက်လက်ကြွသွားလေသည်။ ဦးတုတ်မှိုင်းကလည်း ဇင်ပြွန်းရွာသို့ ဆက်လက်ထွက်ခွာခဲ့ပြီး ဆောင်ရွက်စရာ ကိစ္စများကို အမြန်ဆောင်ရွက်၍ ဆရာတော်အားဖူးမြော်ရန် ကျောင်းသို့ဝင်သွားရာ ဆရာတော်ကြီးအား ဥပုသ်သည်များ တရားဟောကြားနေသည်ကို တွေ့ရှိရသဖြင့် အထူးအံ့ဩဝမ်းမြောက်ခဲ့ရလေသည်။

ထိုအချိန်တွင် ဆရာတော်ကြီးသည် သက်တော် ၉၈ နှစ်၊ ဝါတော် ၇၈ ဝါ ရှိပြီးဖြစ်ကြောင်း သိရသဖြင့် ရာပြည့်ဆရာတော်ဟုခေါ်သော် သင့်နိုးအံ့ ထင်မိပါသည်။

၁၉၉၃ ဆရာတော်ကြီးသည် မကွေးတိုင်းဒေသကြီး၊ ငဖဲမြို့နယ်၊ ဇင်ပြွန်းကျေးရွာအုပ်စု၊ ဇင်ပြွန်းသုသာန် ကမ္မဋ္ဌာန်း ကျောင်းတွင် သီတင်းသုံးနေတော်မူရာမှ ၁၃၅၄ ခုနှစ်၊ ပြာသိုလဆုတ်၄ ရက်၊ (၁၁-၃-၉၃) တနင်္လာနေ့ ညနေ ၆ နာရီ ၁၀ မိနစ်အချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့သည်။

အများကမူကား မေတ္တာရှင်ကြီး ဖြစ်သော ဇင်ပြွန်းတိုက်ကျောင်း ဆရာတော်ကြီး ဦးသာဓိနကို ရဟန္တာကိုယ်တော်ကြီးဟု ကြည်ညိုစွာ ပြောဆိုကြကြောင်း သေချာစွာကြားသိရပါသည်။

(ကျမ်းကိုး၊ ထိုအကြောင်းကို ကျမ်းပြုဆရာ တင်အောင်သွင်၊ အကျော်ဒေးယျ ဆရာတော်ကြီးများ၏ ဘဝဩဝါဒနှင့် ဖြစ်ရပ်ဆန်းများ၊ ၂၀၀၄ ခု၊ ပထမအကြိမ် ပုံနှိပ်ခြင်း၊ စာ၊ ၁၀၁-၁၀၅ တွင် ကြည့်ပါ။)

ယနေ့တိုင် ရုပ်ကလာပ်တော်ကို ဖူးမြော်နိုင်သေးသော

# မော်ဘီ ထန်းတပင်၊ နဲသမိန်ရွာ

# ပထမ နဲသမိန်ဆရာတော် ဦးဝိစာရ





ထူးခြားခဲ့သော နဲ့သမိန်ဆရာတော်၏ အကြောင်းအရာတို့ကို ကျွန်တော်သည် မည်သည့်အခါကတည်းက စိတ်ဝင်စားစွာဖြင့် မော်ကွန်းကမ္ပည်းတင်ခဲ့သည်ဟူ၍လည်းကောင်း၊ လေ့လာခဲ့ဖူးသည်ဟူ၍ လည်းကောင်း၊ ရုတ်တရက်မမှတ်မိပါ။ မေ့မေ့ပျောက်ပျောက် ဖြစ်နေခဲ့ပါသည်။

ဟိုတစ်လောက စာအုပ်အဟောင်းစင်ကြီးကိုရှင်းရာ မိမိ၏လက်ရေးဖြင့် မင်တံ၊ ကလောင်တံသုံးကာ ရေးသားထားသော နှစ်ပေါင်း ၃၀ ကျော်က စာမူဟောင်းတစ်ခုကို ဝါကြန့်ကြန့်အရောင်အဆင်းနှင့်တွေ့၍ ဖတ်ကြည့်ရာ နဲ့သမိန်ဆရာတော်အကြောင်း ဖြစ်နေသည်ကို အံ့ဩဝမ်းမြောက်စွာ တွေ့ရှိရပါသည်။

ယယ်မှုယယ်သွေး လက်ရာဖြစ်သဖြင့် ကလက်တက်တက်ရှိသည်ဟု မိမိဘာသာမိမိ ထင်မြင်မိသော်လည်း ယယ်မှုယယ်သွေးလက်ရာကို ခန့်ညားအောင် ပြန်လည်ပြင်ဆင်ခြင်းမပြုတော့ဘဲ မူရင်းအတိုင်း အောက်တွင် ဖော်ပြလိုက်ပါတော့သည်။ မိမိ၏ လွန်ခဲ့သော နှစ်ပေါင်း ၃၀ ကျော်က စိတ်နေစိတ်ထားကို ပြန်လည်စဉ်းစားမိပါသည်။ မူရင်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ ခေါင်းစဉ်မှာတိုစိစိဖြစ်၏။ နဲ့သမိန်တဲ့။

## နဲ့သမိန်

ဝါကြန့်ကြန့် စာရွက်ကလေးများ ပိဿာချိန်နှင့် စက္ကူဟောင်းများဝယ်သောသူကို တစ်ပိဿာလျှင် လေးကျပ်နှင့် ရောင်းပစ်အံ့ဆဲဆဲ ကာလကလေး၊ တစ်မိနစ်အလိုမှာ မျက်စိက ရုတ်တရက်ဖတ်မိ၏။ ပုဂ္ဂိုလ်ထူးကို ဖူးချင်သလားတဲ့ နဲ့သမိန်ရွာကို သွားပါတဲ့။

နဲ့သမိန်ရွာဆိုတာ ဘယ်မှာရှိသလဲ။ ဘယ်တိုင်းမှာလဲ၊ ဘယ်မြို့နယ်မှာလဲ။ ဘယ်လိုသွားရတယ်။ ကျွန်ုပ်သေချာစွာမသိပါ။ ထို့ကြောင့် ဝါကြန့်ကြန့် စက္ကူအဟောင်းကလေးကို ဆက်၍ဖတ်ရသည်။

ထန်းတပင်မြို့နယ်ထဲမှာပါ၏။ မော်ဘီခရိုင်ထဲပါ၏။ ပဲခူးတိုင်းထဲမှာရှိ၏။ ယခုမှသိရ၏။ စာရွက်စုတ်စုတ် ကလေး၊ ဝါတာတာကလေး ရေးသားသည့် ခဲတံရာကလေးက ရေးတေးတေးဖတ်လို့တော့ရသည်။

ဖတ်လျှင် ဖတ်ချင်း 'ဆရာတော် ဦးကေသရ ပျံလွန်တော်မူသော သတင်း၊ နဲ့သမိန်ဆရာတော်ဆိုတာ ဒါပဲဖြစ်မည်ထင်သည်။ ဟုတ်ပြီ ဆက်ဖတ်၏။ ဖတ်ရင်း ဖတ်ရင်းထခုန်မိ၏။ ကုလားလက်ထဲ ပိဿာချိန်နှင့် မရောင်းမိတာ ကံကောင်းပေစွ။

ဆရာတော်ကြီး ပျံလွန်တော်မူပြီးပြီ။ ၂ ရက်မက ၃ ရက်ပင်ရှိပြီ။ သို့သော် ဆီးများ၊ ဝမ်းများ သွားနေသေး၏။ သုတ်သင်ပေးကြရ၏။ အံ့ကရော။ လူကောင်း ပကတိကဲ့သို့ပင်။ ဘာကြောင့်လဲ။ ယခင်က မစဉ်းစားမိ။

အလောင်းတော်မှာ ပျော့နေ၏။ အိနေ၏။ ဆံတော်များလည်း ခဏခဏ ရှည်၍လာ၏။ မကြာခဏ ရိတ်၍ ရိတ်၍ ပေးရ၏။ အံ့ဖွယ်သုတ အစစ်ဖြစ်၏။ ဆရာတော်ကြီးရေးသော ကျမ်းများ ဖတ်ချင်လှ၏။ ရှာ၏ မရ။ ဆရာတော်ကြီး မည်သို့အားထုတ်သည်ဟု မသိရ။ နစ်နာလှပေစွ။

နဲ့သမိန်ရွာကား ကံထူးပေစွ။ နဲ့သမိန်ရွာသားများ ကံထူးပေစွ။ နဲ့သမိန်ဆရာတော် ဦးကေသရသည်သာ ဤသို့ဤနှယ် ဖြစ်သည်မဟုတ်။ လွန်ခဲ့သော လေးငါးဆက်လောက်ကလည်း ဤသို့ဖြစ်ခဲ့ဖူးသေး၏။ တိုက်တိုက်ဆိုင်ဆိုင် ဤကျောင်းမှာပါတဲ့။

ဘွဲ့တော်က ဦးဝိစာရ၊ လူအမည်မှာ ဦးပိုင်၊ ရဟန္တာဟု ကြီးစွာကျော်ကြား



ခဲ့ဖူး၏။ ယခု ဆရာတော်ဦးကေသရလည်း ရဟန္တာဟုကျော်စော၏။ သို့သော် ယခု ဆရာတော် ဦးကေသရအကြောင်းကို သေချာစွာမသိရ။ နည်းနည်းမျှသာသိရ၏။ အားမရလှ။

တစ်ခါက ဆရာတော်ဦးကေသရ သိတင်းသုံးနေ၏။ ခြင်ထောင်မရှိ။ ခြင်ကောင်တဝီဝီ။ ဆရာတော်လျောင်းနေ၏။ ခေါင်းမြီးခြုံနေ၏။ ခြင်ထောင်မရှိ။ ဘယ်ရောက်သွားပြီလဲ။ လူတစ်ယောက်လာ၍ အလှူခံသတဲ့။ ခြင်ထောင်ကို ကြိုးဖြုတ်၍ လှူလိုက်သတဲ့။ မှတ်ကရော။ တစ်ခါကလည်း တော်တော်ကြီး နေမကောင်းဖြစ်၏။ လဲစရာ သင်္ကန်းအပိုမရှိ။ ရန်ကုန်သွား၍ အမြန်ဝယ်ရ၏။ လှူရ၏။ ဆရာတော် ခေါင်းအုံးမှာ၊ စောင်မှာ၊ ခြင်ထောင်မှာ ကြမ်းပိုးတွေ ကြက်သီးထစရာ။ နေထုတ်၍ မလှမ်းရ။ နေပါစေတဲ့။ သတ္တဝါတွေ အနေအထိုင်ပျက်လိမ့်မည်တဲ့။ တားတော်မူ၏။ အံ့ကရော။

ဆရာတော် အလေ့ကား ဆန်းလှ၏ဟုဆိုရမည်။ ကျက်သရေ တိုက်ခန်းမှာ အမြဲရှိ၏။ အပြင်မထွက်။ ထွက်ခဲ၏။ အချိန်ရှိသမျှ တရားလုပ်၏။ အချိန်တန်လျှင် ကျက်သရေခန်းမှထွက်၏။ မည်သူ့ကိုမျှဘာမှမမိန့်။ အပြင်မှာ လက်ဖက်ရည်ပွဲ ကပ်မည့်သူမရှိက ပြန်ဝင်သွား၏။ ရှိလျှင် ဘုဉ်းပေး၏။ ထို့ကြောင့် တပည့်များက အသင့်ပြင်ထားရ၏။ ဆရာတော်ကား နံနက်စောစော ဆွမ်းမဘုဉ်းပေး။ လက်ဖက်ရည် အချိန်ကျလျှင်သာ ကြွလာတတ်၏။

ဆရာတော်ကြီး နှစ်ကိုယ်ခွဲ၍ ကြွမည်ဟု မကြာခဏသတင်းဖြစ်၏။ နဲသမိန်ရွာမှာလည်းဆွမ်းခံ၏။ တခြားဝေးဝေးမှာလည်းဆွမ်းခံ၏။ ဤသို့ သတင်းဖြစ်နေ၏။ ထိုသတင်းကို ဇွတ်လျှောက်သူများရှိတတ်၏။ အာရုံညွတ်ခဲ့သည်ဟုသာဖြေ၏။ ကြည်ညိုစရာကောင်းပေစွ။

ဆရာတော်ကြီး ဦးကေသရမှာ တနင်္လာသားတည်း။ တန်ခူးလဆန်း ၁၂ ရက်မှာ ဖွား၏။ နှစ်က သက္ကရာဇ် ၁၂၅၆ ခု၊ အမိက ဒေါ်သေးသေး၊ အဖက ဦးကြာဥ၊ ကျောင်းတိုက်အမည်က ခေမာသီဝံ တိုက်၊ အထက်ကျောင်းဟု လည်းခေါ်၏။ ရွာက နဲသမိန်ရွာ၊ မြို့နယ်က ထန်းတပင်မြို့နယ်၊ ပျံတော်မူသောအခါ သက်တော် ၇၇ နှစ်၊ ဝါတော် ၄၇ ဝါ။ ပျံလွန်သောနေ့က ကဆုန်လဆန်း ၃ ရက်၊ အချိန်က ၁၂ နာရီ ၃၅ မိနစ်၊ နှစ်က သက္ကရာဇ် ၁၃၃၃ ခုနှစ်။ ဤမျှသာသိရပါသည်။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဋ္ဌေးလှိုင်ရေးသော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ ဆဋ္ဌမအကြိမ်။ ၁၉၈၅ ခုနှစ်၊ ဇူလိုင်လ။ စာမျက်နှာ ၆၃၁-၆၃၅ (၂) ပရဟိတ အသင်းအတွင်းရေးမှူး ဦးအောင်သန်း၏ အတ္ထုပ္ပတ္တိ ၁၉၇၂ ခုနှစ်၊ ဇန်နဝါရီ။ မောင်ပန်းမွှေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၁၄)၊ ၄-၇-၂၀၀၅။ ဤသို့ဖြင့် ကျွန်ုပ်သည် ရဟန္တာအရှင်မြတ်ဟု သမုတ်ခြင်းခံခဲ့ရသော မှော်ဘီခရိုင် ထန်းထပင်မြို့နယ်အပိုင် နဲသမိန်ကျေးရွာ နဲသမိန် ဆရာတော် ဦးကေသရ၏ ထေရုပ္ပတ္တိ ပထမအကြိမ် ရိုက်နှိပ်ခြင်း ၁၉၇၂ ခု၊ ဇန်နဝါရီလ ထုတ် ၃၁ စာမျက်နှာရှိ စာအုပ်ကလေးကို တသိမ်းသိမ်း တယုယယ ဖြစ်ရပါသည်။)

ရသစာစီစာကုံးဆန်ဆန် စီကုံးရေးခဲ့သော ငယ်လက်ရာ စာမူကို ဖတ်ရသောအခါ ကျွန်ုပ်သည် နဲသမိန်ဆရာတော်၏အကြောင်းကို လက်လှမ်းမီသမျှ ပြန်လည်ဆန်းသစ်၍ လေ့လာရပြန်ပါသည်။

ဤတွင် ငယ်စဉ်ကရေးခဲ့သော မှတ်စုထဲတွင် လူအမည် ဦးပိုင်၊ ရဟန်းအမည် ဦးဝိစာရ ဟူ၍ နဲသမိန်ဆရာတော် ရဟန္တာဦးကေသရ၏ ဆရာအရင်းဖြစ်ကြောင်းကို တစ်စွန်းတစ



တွေ့ရှိခဲ့ရပါသည်။ ထိုလူအမည် ဦးပိုင်၊ ရဟန်းဘွဲ့တော် ဦးဝိစာရ ရဟန္တာကိုယ်တော်မြတ်ကြီး၏ ရုပ်ပုံလွှာ တစေ့တစောင်းကိုလည်း လေ့လာခဲ့ရပြန်ပါသည်။ ထိုအခါ အမှတ်မထင်ရရှိခဲ့သော နဲ့သမိန် ရွာသား ဦးအောင်သန်း၏ စာအုပ်ကလေးကောင်းမှုကြောင့် ရဟန္တာအသစ်တစ်ပါး ပွင့်ပေါ်သည်ကို မှတ်တမ်းတင်နိုင်ခဲ့ခြင်းဖြစ်ပါသည်။

ထိုအခါ မထင်မှတ်ဘဲ အံ့ဩဖွယ်ရာများ တွေ့ရှိရပါသည်။ ရဟန္တာဟု ကျော်စောသော နဲ့သမိန်ဆရာတော် ဦးကေသရ၏ ဆရာရင်းဖြစ်သော ဦးဝိစာရမှာလည်း ရဟန္တာဟု ကျော်စောတော်မူကြောင်း၊ ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေးကြောင်း သိရှိရပါသည်။ ထို့ကြောင့် ရဟန္တာ ဦးဝိစာရဆရာတော်ကြီးအကြောင်း လက်လှမ်းမီသမျှ ပြုစုရပြန်ပါသည်။

## ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေးသော ပထမ နဲ့သမိန် ရဟန္တာဟု ကျော်ကြားတော်မူသော နဲ့သမိန်ဆရာတော် ဦးဝိစာရအကြောင်း

ကွယ်လွန်ခဲ့ရှာပြီဖြစ်သော ဦးစို (သူကြီး)၊ ဦးအော (သူကြီး)တို့၏ လက်ရေးမူ မှတ်တမ်းများကို လေ့လာကြည့်သောအခါ သိရှိရသည်မှာ နဲ့သမိန်ရွာတွင် မူလက (အထက်တန်း) ခေမာသီဝံကျောင်း တစ်ကျောင်းတည်းသာ ရှိပြီး မှတ်တမ်းပြုသူတို့ မှတ်မိစဉ် ကျောင်းထိုင်သော ဆရာတော်ကြီးမှာ ဘွဲ့တော် ဦးတိက္ခဖြစ်ပါသည်။ ပဋိပတ္တိ ပရိယတ္တိတို့နှင့် ပြည့်စုံသည်ဟု ကျော်ကြားခဲ့ပါသည် ဟူ၍ဖြစ်ပါသည်။

## ပထမ ဆရာတော်၏ တပည့်များ

၎င်း၏ တပည့်များထဲတွင် စာပေအရာ၌ ဦးဘိုးလှိုင်ဆိုသူမှာ အလွန်ကျော်ကြား လူသိများခဲ့ပါသည်။ ဘောလယ်၊ မယ်ဇလီ၊ ဆားမလောက်၊ အင်ပူ ခြောက်ရွာအထိ ဆရာတော်ကြီး၏ ဩဇာမှာ ကျယ်ပြန့်လျက်ရှိပြီး ကလေးနှစ်ယောက် သုံးယောက် အဖေများပင် လင်မယားရန်ဖြစ်ကြသည်ကြားက ခေါ်၍ ရိုက်နှက်ဆုံးမခဲ့သည်ဟူ၍ ဆိုကြသည်။

## ပထမ ဆရာတော် ဦးတိက္ခ ပျံလွန်တော်မူခြင်း

ဆရာတော်ကြီး ဦးတိက္ခ ပျံလွန်တော်မူသောအခါ ကျောင်း၌ ဦးပဉ္စင်းလေးပါး ရှိခဲ့ပါသည်။ တစ်ပါးမှာ နဲ့သမိန် ရွာဇာတိ လူအမည် ဦးပိုင်၊ ရဟန်းဘွဲ့ ဦးဝိစာရ ဖြစ်ပါသည်။ တစ်ပါးမှာ အထက်အညာသား လူအမည် ဦးအန်ဟု ခေါ်ပါသည်။ ကျန်နှစ်ပါး၏ အမည်များကို ဖော်ပြမထားပါ။ ထိုမထေရ်ကြီးနှစ်ပါးတွင် ကျောင်းကို မည်သည့် ရဟန်းအား အပ်နှင်းသင့်သည်ဟူသော ပြဿနာပေါ်လာပါသည်။

## ဦးဝိစာရအား ကျောင်းအပ်ခြင်း

ပေါက်တန်း ရခိုင်ဆရာတော်ကြီး ဦးဩဘာသ၊ မဲဇလီဆရာတော်ကြီး၊ အင်းမဆရာတော်ကြီး၊ ကွဲကူးဆရာတော်ကြီး၊ ဘောလယ်ဆရာတော်ကြီးတို့က ဦးဆောင်ပြီး ရဟန်းဘွဲ့ဦးဝိစာရ၊ လူအမည် ဦးပိုင်အား ကျောင်းကိုအပ်ထားခဲ့ပါသည်။

နဲ့သမိန်ရွာတွင် ပေ ၂၅၀ ခန့် ပတ်လည်ရှိ၍ နဲ့သမိန်တစ်ရွာလုံး သောက်သုံးနေကြသော ကြည်လင်အေးမြသည့် ရေကန်ကြီးတစ်ကန်ရှိပါသည်။ လူအမည် ဦးပိုင်၊ ရဟန်းဘွဲ့ ဦးဝိစာရ လက်ထက်တွင် ကျောင်းနေရာမှာ ထိုရေကန်ကြီးအနားတွင်



ရှိပါသည်ဟုဆိုပါသည်။ ထိုဦးပိုင် တစ်ဖြစ်လဲ ဦးဝိစာရသည်ပင် နဲ့သမိန်ဆရာတော်ဟူ၍ ကျော်ကြားတော်မူသော ဆရာတော်ကြီး ဖြစ်လာပါသည်။

ဆရာတော်ကြီးမှာ လူမှုကိစ္စတို့တွင် ဝင်ရောက်စွက်ဖက်လေ့မရှိဘဲ မိမိတစ်ပါးတည်း ရဟန်း သာမဏေတို့၏ ကျင့်စဉ်နှင့်အညီ ကျစ်လစ်သိပ်သည်းစွာ နေထိုင်လျက်ရှိခဲ့ပါသည်။

## ရဟန္တာဟု ကျော်ကြားခြင်း

တရားဘာဝနာကို နှလုံးပြုခြင်းဖြင့်သာ အချိန် နေ့ရက်တို့ကို ကုန်လွန်စေခဲ့ပါသည်။ **တစ်နေ့သောအခါတွင် ဆရာတော်ဘုရားကြီး ဦးဝိစာရအား ရပ်နီးရပ်ဝေး အထက်အောက် ဝဲယာအရပ်ဒေသတို့မှ လူထုပရိသတ်ပေါင်း များစွာတို့သည် ရဟန္တာအစစ်ဖြစ်တော်မူပြီဟု သတ်မှတ်ကြကာ လာရောက်ဖူးမြော်ကြသည်ဟု သိရပါသည်။ ထိုအခါမှစ၍ အုံ့ဖွယ်ကြည်ညိုဖွယ် ဖြစ်ရပ်ဆန်းများကို လေ့လာမှတ်သားကြရပါတော့သည်။**

## များလွန်းသဖြင့် ဖယောင်းတိုင်များကို ယိုင်ပတ်ဖြင့် ထည့်ရခြင်း

ရွာထဲတွင်လည်း တစ်ရပ်တစ်ပါးမှ လူသူပရိသတ်တို့ဖြင့်သာ ပြည့်ကျပ်စည်ကားများပြားလျက်ရှိကြပါသည်။ အိမ်တိုင်းတွင် ရပ်ဝေးမှ ဧည့်သည်များဖြင့် ပြည့်ကျပ်၍လည်းကောင်း၊ ပူဇော်သည့် ဖယောင်းတိုင် စသည်များသည် ယိုင်ပတ်ဖြင့် ထည့်ရသည့် အဆင့်သို့လည်းကောင်း ရောက်ရှိခဲ့ပါသည်။

## တောင်ဝှေးတော်ဖြင့်ထိုးကာ မေတ္တာရေ သောက်သုံးစေခြင်း

ဆရာတော်ဘုရားကြီးမှာ များပြားလှသော ပရိသတ်လူသူတို့အား ရေကန်ကြီးထဲမှ ရေချမ်းများကို အိုးကလေးများဖြင့် သယ်ယူစေပြီး တောင်ဝှေးတော်ဖြင့် ထိုးစိုက်ပေးကာ မေတ္တာရေဟုဆို၍ သောက်သုံးစေခဲ့ပါသည်။ ရောဂါဝေဒနာသည်များမှာ ပျောက်ကင်းသူများပြားပြီး ထိုပျောက်ကင်းသူများထဲတွင် ညောင်ဆိပ်ရွာမှ ဦးသာဇံဆိုသော အဘိုးကြီးတစ်ယောက်တွင် နှစ်ပေါင်းများစွာ ရောဂါဝေဒနာစွဲကပ်ပြီး မစားနိုင်၊ မအိပ်နိုင် ဖြစ်နေရာမှ ဆရာတော်ဘုရားကြီး၏ မေတ္တာရေအကြည်တော်ကြောင့် ပျောက်ကင်း၍ သွားခဲ့ပါသည်။

ဦးသာဇံလည်း အလွန်ကြည်ညို ယုံကြည်လှသဖြင့် ဖြစ်ရကား အိမ်သို့ပင်မပြန်တော့ဘဲ ဆရာတော်ဘုရားအား ဝတ်ကြီး ဝတ်ငယ် ပြုစုကာ အသက်ထက်ဆုံး နေထိုင်သွားခဲ့သည်။

(ကျမ်းကိုး။ စီစဉ်ရေးသားသူ ဦးအောင်သန်း နဲ့သမိန်ရွာ၊ ရဟန္တာအရှင်မြတ်ဟု သမုတ်ခြင်းခံခဲ့ရသော မော်ဘီခရိုင်၊ ထန်းတပင်မြို့အပိုင် နဲ့သမိန်ကျေးရွာ ကျေးဇူးရှင်ဆရာတော်ဘုရားကြီး ဦးကေသရ၏ ထေရုပ္ပတ္တိ၊ ပထမအကြိမ် ၁၉၇၂ ခု၊ ဇန်နဝါရီလ၊ နဲ့သမိန်ရွာ၊ ပရဟိတအသင်း နဲ့သမိန်ကျေးရွာ ထန်းတပင်မြို့နယ်၊ စာ ၃ - ၄- ၅ - ၆ )

ယနေ့တိုင် ရုပ်ကလာပ်တော်ကို ဖူးမြော်နိုင်သေးသော

# မော်ဘီ ထန်းတပင် နဲ့သမိန်ဆရာတော် ဦးကောသလ

အေဒီ ၁၈၉၅ – ၁၉၇၁ ( ၁၂၅၆ – ၁၃၃၃ )



တော်ဝင်မြို့ စာပေတိုက်



## တပည့်ရင်းချာများ

ပထမ ရဟန္တာအရှင်မြတ်ဟု သမုတ်ခံရသော ဆရာတော်ကြီး ဦးဝိစာရ ပျံလွန်တော်မူသွားပြီးနောက် ကျောင်းထိုင်ဆရာတော် ငါးဆက်၊ ခြောက်ဆက်မြောက် ကာလ ကျောင်းထိုင်ဆရာတော်ကြီး ဦးပညာ ပျံလွန်တော် မူသွားသောအခါ ၎င်း၏ တပည့်ရင်းချာဖြစ်သော ရေနံချောင်းမြို့တွင် ပညာဆည်းပူးလျက်ရှိသည့် ရှင်ကေသရ အားပင့်ဖိတ်၍ သီတင်းသုံးနေထိုင်တော်မူခဲ့လေသည်။ ထိုဦးကေသရသည်လည်း နောင်သောအခါ နဲသမိန်ရဟန္တာဟု ကျော်စောတော်မူသော ဆရာတော်ကြီး ဖြစ်တော်မူလာပါသည်။

(ကျမ်းကိုး။ စိစဉ်ရေးသားသူ ဦးအောင်သန်း နဲသမိန်ရွာ၊ ရဟန္တာအရှင်မြတ်ဟု သမုတ်ခြင်း ခံခဲ့ရသော မှော်ဘီခရိုင်၊ ထန်းတပင်မြို့နယ် နဲသမိန်ကျေးရွာ ကျေးလူရှင်ဆရာတော်ကြီး ဦးကေသရ၏ ထေရုပ္ပတ္တိ၊ ပထမအကြိမ် ၁၉၇၂ ခု၊ ဇန်နဝါရီလ၊ နဲသမိန်ရွာ၊ ပရဟိတအသင်း နဲသမိန်ကျေးရွာ ထန်းတပင်မြို့နယ်)

၁၈၉၄ ဆရာတော်ကြီးကို ရန်ကုန်တိုင်းဒေသကြီး၊ ထန်းတပင်မြို့နယ်၊ နဲသမိန်ရွာတွင် ဖွားမြင်တော် မူခဲ့ကြောင်း၊ မိဘဖြစ်သူများမှာ ဖခင်ဖြစ်သူ ဦးကြာဥ၊ မိခင်ဖြစ်သူ ဒေါ်သေးသေးတို့မှ အေဒီ ၁၈၉၄ ခု၊ ဧပြီလ ၁၆ရက်၊ (မြန်မာသက္ကရာဇ် ၁၂၅၆ ခု၊ တန်ခူးလဆန်း ၁၂ ရက်၊ တနင်္လာနေ့တွင် ဖွားမြင်တော်မူခဲ့ကြောင်း သိရှိရပါသည်။

နဲသမိန်ဆရာတော်ကြီးတွင် ညီအစ်ကိုမောင်နှမ မွေးချင်း ၄ ယောက်ရှိကြောင်း၊ ဆရာတော်ကြီးမှာ ဒုတိယမြောက် သားရတနာဖြစ်ကြောင်း သိရပါသည်။

၁၉၀၃ အေဒီ ၁၉၀၃ ခု၊ (၁၂၆၅ ခုနှစ်) အသက် ၉ နှစ်အရွယ်သို့ရောက်သောအခါမှ နဲသမိန်ရွာရှိ ဆရာတော်ဦးပညာထံတွင် လောကုတ္တရာ အခြေခံကျမ်းစာများကို စတင် သင်ကြားခဲ့ရကြောင်း သိရှိရပါသည်။

၁၉၀၆ အေဒီ ၁၉၀၆ ခု၊ (၁၂၆၈ ခုနှစ် ) အသက်အရွယ် ၁၂ နှစ် သားအရွယ်သို့ ရောက်သောအခါ ရှင်သာမဏေအဖြစ်သို့ ရောက်ရှိခဲ့ရကြောင်း၊ အဘိုးဖြစ်သူ ဦးဒွေး၏ ပစ္စယာနုဂ္ဂဖြင့် ရှင်ရဟန်းအဖြစ်သို့ ရောက်တော်မူရကြောင်း သိရှိရပါသည်။

နဲသမိန်ဆရာတော်သည် နဲသမိန်ရွာတွင် နှစ်ပေါင်း ၈ နှစ်ခန့်မျှ လောကုတ္တရာပညာများ၊ လောကုတ္တရာကျမ်းစာ အဖြာဖြာကို သင်ကြားပြီးသည့်နောက် ၈ ဝါအလွန် ၉ ဝါ ရောက်သော ကာလတွင် နဲသမိန်ရွာမှ တစ်ဆင့် ရေနံချောင်းမြို့သို့ သွားရောက်ကာ လောကုတ္တရာကျမ်းစာ အဖြာဖြာကို သင်ကြားခဲ့ပြန်လေသည်။

နဲသမိန်ရွာရှိ ဆရာတော် ဦးပညာမှာ ပျံလွန်တော်မူသဖြင့် မိမိ၏ နေရင်းရွာသို့ ရေနံချောင်းမှ တစ်ဆင့် ပြန်လည်ရောက်ရှိပြီးလျှင် ခန္ဓာဝန်စွန့်သည်အထိ မိမိဇာတိနဲသမိန်ရွာ၌ပင် အသက်ထက်ဆုံးနေသွားတော်မူကြောင်းသိရပါသည်။

နဲသမိန်ရွာသည် ထန်းတပင်မြို့နယ်၊ ဘောလယ်မြစ်၏ အရှေ့ဘက်ကမ်းတွင်တည်ရှိသော ရွာတစ်ရွာဖြစ်၏။ အိမ်ခြေ ၅၀၀၊ ၁၀၀၀ မျှရှိသော်လည်း အလယ်တန်းကျောင်းနှင့် ဆေးရုံနှင့် စံပြကျေးရွာကြီးပင် ဖြစ်ပေသည်။



၁၉၇၂ ရဟန္တာဟုကျော်ကြားသော နဲ့သမိန်ဆရာတော်ကြီး ဦးကေသရ၏ အန္တိမ အဂ္ဂိ ဈာပန သာစုကိဠနသဘင်ကို ဆင်ယင်ကျင်းပခဲ့သောရက်မှာ ၁၉၇၂ ခု၊ ဖေဖော်ဝါရီလ ၄ ရက်၊ (၁၃၃၃ ခု၊ တပို့တွဲလဆုတ် ၅ ရက်နေ့)ဖြစ်ပါသည်။ ဆရာတော်ကြီးမှာ သက်တော် ၇၇ နှစ်၊ ဝါတော် ၄၇ ဝါ၊ ရှိခဲ့ပါသည်။

ထိုအချိန် ထိုနှစ်တွင်ပင် နဲ့သမိန်ရွာ ဦးအောင်သန်းသည် ရဟန္တာ ဦးကေသရ၏ ထေရုပ္ပတ္တိကို ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။ အလွန်ရှားပါးသော စာမူ ဖြစ်ပါသည်။ ထိုစာမူထဲတွင် ရဟန္တာ ဦးကေသရ၏ ဆရာတော်အစဉ် အကြောင်းလည်း ပါ၏၊ ဆရာတော် ဦးကေသရ၏ ထေရုပ္ပတ္တိလည်း ပါ၏၊ ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က ထူးခြားသည့် ဖြစ်စဉ်များလည်း ပါ၏။ ၎င်းအပြင် သဲအင်းဂူ ဆရာတော်ကြီး ကြွရောက်တော်မူကြောင်းလည်း ပါ၏၊ ၎င်းအပြင် နဲ့သမိန်ရွာသမိုင်းအကြောင်းလည်း ပါ၏။ ဤသို့ဖြင့် ဦးအောင်သန်း၏ ကောင်းမှုကြောင့် ကျွန်ုပ်တို့သည် သိသင့်သည်များကို သိရပါသည်။ ယခု ကျွန်ုပ်ကတစ်ဆင့် ပြန်၍ ဖောက်သည်ချ ပြောဆိုပါမည်။

## နဲ့သမိန်ရွာအကြောင်း

ခန့်မှန်းခြေအားဖြင့် နဲ့သမိန်ရွာကို ၁၆ ရာစုနှစ်ခန့်ကစ၍ တည်ခဲ့သည်ဟု ခန့်မှန်းပါသည်၊ နဲ့သမိန် တိုက်နယ်၊ နဲ့သမိန်ကျေးရွာသည် မှော်ဘီခရိုင်၊ ပဲခူးတိုင်းဒေသကြီး တွင်ရှိပြီး၊ ထန်းတပင်မြို့အပိုင်ဖြစ်သည်၊ အိမ်ခြေ ၄၀၀ ကျော်ခန့်ရှိပါသည်၊ လှိုင်ဘောလယ်မြစ် ၏ အရှေ့ဘက်ကမ်းတွင်ရှိပြီး အနောက်ဘက်ကမ်းတွင် မအူပင်ခရိုင်အပိုင် ဖြစ်ပါ သည်၊ ၁၉၅၆ ခုနှစ်၊ သန်းခေါင်စာရင်း ခန့်မှန်းခြေအရ မြို့နယ်၏ လူဦးရေသည် (၈၅၀၀၀) ကျော်ကျော် ရှိခဲ့ပါသည်။

(ကျမ်းကိုး၊ နဲ့သမိန်ရွာသား ဦးသန်းအောင်၊ ရဟန္တာ ဦးကေသရ၏ ထေရုပ္ပတ္တိ စာ - ၂၈)

## ရဟန္တာ နဲ့သမိန်ဆရာတော် ဦးကေသရ၏ အလေ့အထများ သက်သတ်လွတ်ဘုဉ်းပေးခြင်း

ဆရာတော်ကြီးမှာ ဗုဒ္ဓ၏ အဆုံးအမအတိုင်း ကျစ်လစ်သိပ်သည်းစွာ နေထိုင်လျက် ရှိခဲ့ပါသည်၊ နှစ်ပေါင်း ၃၀ ခန့် သက်သတ်လွတ်ကိုသာ ဘုဉ်းပေးသုံးဆောင်သွားခဲ့ရာမှ အသက်ကြီးရင့် အိုမင်းမစွမ်း ရှိလာသောအခါ ကျန်းမာရေးချို့တဲ့လာသဖြင့် ဆရာဝန်ကြီးများ၏ အတင်းတိုက်တွန်းချက်အရ အသက်သတ်ဆွမ်းကိုလွှတ်၍ ပြန်၍ဘုဉ်းပေးသွားခဲ့ပါသည်။

## ရုပ်လက္ခဏာတော်အသွင်အပြင်

ကိုယ်ဟန် အနေအထားမှာ ပိန်ပိန်ပါးပါးဖြစ်ပြီး အသားတော်မှာ ဖြူပါသည်၊ မျက်လုံးတော်မှာ စူးရှတောက်ပလျက်ရှိသည်။ အရပ်တော်မှာ ၅ ပေ၊ ၃လက်မခန့်ရှိပါသည်။ စကားပြော အလွန်နည်းပါးပြီး တစ်ပါးတည်းသာ နေလေ့ရှိပါသည်။ တစ်နေ့ရာရာတွင် အချိန်ပေါင်း မြောက်မြားစွာ နေထိုင်လေ့ရှိတတ်ပါသည်။

နိုင်ငံအကျော် တရားပြ ဆရာတော်ကြီးများကိုလည်း မိမိကျောင်းသို့ ပင့်ဖိတ်၍ ဒကာ၊ ဒကာမ တို့အား သာသနာပြုစေခဲ့ပါသည်၊ အခြွေအရံ တပည့်များဖြင့် အနေနည်းပြီး အေးဆေး ဆိတ်ငြိမ်ရာကို



လိုလားနှစ်သက်ခဲ့ပါသည်။ အစားအသောက် အလွန်နည်းပါး ခြိုးခြံပါသည်။ အချိန်ရှိသရွေ့ တရားဘာဝနာများကို နှလုံးပြုနေသည်ကများပါသည်။

၁၉၇၁ သက်တော် ၇၇ နှစ်၊ သိက္ခာတော် ၄၇ ဝါ၊ အေဒီ ၁၉၇၁ ၊ ဧပြီလ ၂၇ရက်၊ အင်္ဂါနေ့ (၁၃၃၃ ခု ကဆုန်လဆန်း ၃ ရက်) မွန်းလွဲ ၁၂ နာရီ ၃၅ မိနစ်အချိန်တွင် နဲသမိန်ရွာ အထက်ကျောင်း ခေမာသီဝံကျောင်းတိုက်ကြီးအပေါ်၌ ဘုရားရဟန္တာတို့သော်မှ ရှောင်ကွင်း၍မရနိုင်ရှာသော အနိစ္စသဘောဖြင့် ခန္ဓာဝန်ချပ်ငြိမ်းသွားခဲ့ရှာလေသည်။

၁၉၇၂ ဆရာတော်ကြီး၏ အလောင်းတော်မြတ်ကိုလည်း ပလ္လင်တော် ကြာကလပ်၊ ထီးဖြူတော်မြတ် တို့ဖြင့် မွမ်းမံပြီး ပွဲလမ်းသဘင်ကြီးစွာ ခင်းကျင်းပသလျက် ၁၃၃၃ ခု၊ တပို့တွဲ လဆုတ် ၅ ရက်၊ (၁၉၇၂ ခု ဖေဖော်ဝါရီလ ၄ ရက်နေ့)မှစ၍ အဋ္ဌမအင်္ဂ ဈာပန သာဓုကီဠနသဘင်ကို ဆင်ယင်ကျင်းပခြင်းပြုခဲ့ပါသည်။

## ထူးဆန်းစွာ အလောင်းတော်မှစွန့်သော ကျင်ကြီး ကျင်ငယ်များ

၁၉၇၁ ပရိနိဗ္ဗာန် မပြုခင်တွင် ဆရာတော်ကြီးမှာ ၎င်း၏ ခန္ဓာကိုယ်ကြီးအား မီးသဂြိုဟ်ခြင်း မပြုရန်နှင့် ဂူသွင်းထားရန် မှာကြားခြင်း ပြုခဲ့ပါသည်။ အေဒီ ၁၉၇၁ ခု၊ ဧပြီလ ၂၉ ရက်၊ ကြာသပတေးနေ့ (၁၃၃၃ ခု၊ ကဆုန်လဆန်း ၅ ရက်နေ့)တွင် ဆရာတော်ကြီး၏ အလောင်းတော်မှ လူကောင်းပကတိတို့စွန့်သော ကျင်ကြီး မျိုး ယိုထွက်ခဲ့ပါသည်။ ထိုယိုသော ကျင်ကြီးအား သုတ်နေစဉ်တွင် လူကောင်း ပကတိတို့ပေါက်သော ကျင်ငယ်မျိုး ပန်း၍ထွက်လာပြန်ပါသည်။

ထိုကျင်ကြီးကျင်ငယ်တို့မှာ လူကောင်းပကတိတို့၏ ကျင်ကြီးကျင်ငယ်နှင့် လုံးဝခြားနားခြင်းမရှိပါဟု ဆရာတော်ကြီးအား စောင့်ရှောက် ကုသခြင်း ပြုခဲ့ကြသော ဆေးမှူးများက ပြောပြကြလေသည်။

## ယနေ့တိုင် ကွေးနိုင် ဆန့်နိုင်

ယနေ့တိုင် ဆရာတော်ကြီး၏ ရုပ်အလောင်းတော်မှာ ပျော့ပျောင်းညင်သာလျက် ကွေးခြင်း၊ ဆန့်ခြင်း၊ လှုပ်ရှားနိုင်ခြင်းတို့ကို အချိန်အခါမရွေး ပြုလုပ်၍ ရပါသည်။

## ယနေ့တိုင် ဆံပင်များရှည်လာ

ဆရာတော်ကြီး၏ ရုပ်အလောင်းတော်မှ ဦးခေါင်းတော်ပေါ်ရှိ ဆံပင်တို့သည်လည်း ရှည်ထွက်လာကြသဖြင့် မကြာမကြာ ရိတ်၍ပေးခဲ့ကြပါသည်။

## ဆရာတော်ကြီးရှိစဉ် ဆရာတော်ကြီး၏ ထူးခြားသည့် ဖြစ်စဉ်များ

ဆရာတော်ကြီးသက်တော်ထင်ရှားရှိစဉ်က အိပ်မက်ထူးများမက်သဖြင့် လာရောက်ဖူးမြော်ကြသော လူများရှိခဲ့ဖူးလေသည်။ ထိုအကြောင်းကို ဦးသန်းအောင်က ကိုယ်တွေ့ မှတ်တမ်းတင်ထားခဲ့ပါသည်။ ဖတ်ကြည့်ပါ။

## ရပ်နီး ရပ်ဝေးမှ လာရောက် ဖူးမြော်ကြခြင်း။

အခါတစ်ပါး၌ လှေကြီး၊ လှေငယ် လေးဆယ်၊ ငါးဆယ်ခန့်နှင့် လူအများသည်



လှိုင်ဘောလယ်မြစ်ပြင်မှသည် အထက်ကျောင်းကြီးဆီသို့ တက်ကိုဆုပ်လို့ သုတ်သုတ်လျှော်၍ အထက်ကျောင်းကိုယ်တော် ဖူးမဲ့အသွား စသော ရေခင်းသံပေါက်များကို နားဝင်ချိုစွာ သံပြိုင်သီဆိုကြ၍ ကျောင်းဝင်းကြီးထဲတွင် ပေါက်ရောက်သော ပျဉ်းမပင်ရေဆိပ်သို့ ဆိုက်ကပ်လာကြပါသည်။

နဲသမိန် ရွာသူရွာသားများနှင့် ကျောင်းရှိ ကိုရင်၊ ကျောင်းသား စသည်တို့လည်း ယခုလို မမျှော်လင့်ဘဲ၊ တွေ့ကြုံနေရသော အဖြစ်အပျက်ကြောင့် အံ့သြငေးမောနေမိပါသည်။ လှေပေါ်မှ လူအုပ်ကြီးသည် လျှူဖွယ်ဝတ္ထုအစုစုတို့ဖြင့် ကျောင်းတော်ကြီးပေါ်သို့ တန်း၍တက်သွားကြပါသည်။ ကျက်သရေခန်းထဲမှအပြင်သို့ ထွက်လေ့ထွက်ထနည်းပါးသော ဆရာတော်ကြီးအား အပြင်သို့လျှောက်ထားပင့်ဆောင်ကြသည်။

တပည့်တော်တို့မှာ ကျောင်းမှဆရာတော်က ဆရာတော်ကြီးသည် ထူးမြတ်သော ပုဂ္ဂိုလ်ဖြစ်ကြောင်း အိပ်မက်မြင်မက်သဖြင့် သွားရောက်ဖူးမြော်ကြရန်တိုက်တွန်းသဖြင့် လာရောက်ဖူးမြော်ကြကြောင်း အနူးအညွတ်ပြောကာ သဒ္ဓါ ကြည်ညိုစိတ်ယိုဖိတ်လျက် လက်ယှက်စုံမိုးညွတ်ကျိုး ပူဇော်ခြင်းအမှုကို ပြုလာခဲ့ကြပါသည်။

ဆရာတော်ကြီး၏မျက်နှာတွင် ဝမ်းသာခြင်းသော်လည်းကောင်း၊ ဝမ်းနည်းခြင်းသော်လည်းကောင်း၊ မည်သည့်အသွင်မှမမြင်ရဘဲ တည်ကြည်သော အသွင်ဖြင့်သာ အဖူးအမြော်ခံခဲ့သည်ကို တွေ့ရသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၀ )

## သရက်သီးသူခိုး

နဲသမိန် ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ် ဖြစ်ရပ်မှန်များကို ယနေ့တိုင် ပြောစမှတ်ပြုလျက်ရှိကြပါသေးသည်။ သရက်သီးသူခိုးနှင့် ဆရာတော်ကြီးအကြောင်းကို အောက်ပါ အတိုင်းဖတ်ရှုရပါသည်။

အခါတစ်ပါး ဆရာတော်ကြီး ကျိန်းစက်နေသော ကျက်သရေခန်း လေသာ ပြတင်းပေါက်နှင့် တည့်လျက်ရှိသော သရက်ပင်ကြီးများသည် အသီးပြည့်လျက်ရှိပါသည်။ နေ့ခင်းကြောင်တောင် ရွာမှလူငယ်တစ်ဦးသည် သရက်သီးများအား ပုဆိုးနှင့်လွယ်လျက် ခိုးပြီးခူးနေပါသည်။ ရုတ်တရက် ဆရာတော်ကြီးသည် တရားဘာဝနာစီးဖြန်းရာမှ ထလိုက်သောအခါ မိမိ၏ လေသာပြတင်းမှ သရက်သီးခိုးနေသောလူငယ်နှင့် တည့်တည့်ထင်းထင်းကြီးဖြစ်လျက် ရှိနေပါသည်။ ဆရာတော်ကြီးသည် တစ်ချက်မျှကြည့်လိုက်ပြီး ရုတ်ခြည်း တံခါးကွယ်သို့ဝင်ရောက်ကာ ဘေးမှဖြတ်လျှောက်လျက် ကျောင်းခန်းမကြီးဆီသို့ ရှောင်ရှားပေးလိုက်ပါသည်။

စားချင်လို့ခူးတာ ခူးကြပါစေကွာ။ ဘယ်လိုမှသွားပြီး မနှောင့်ယှက်ကြပါနှင့်ဟူ၍ အနီးအနားမှ ကျောင်းသားများကို ဆိုဆုံးမခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁ )

နဲသမိန်ဆရာတော်ကြီးသည် သက်တော်ထင်ရှား သတ္တဝါများအား သနားသည်းခံတော်မူလေ့ရှိကြောင်း ကရုဏာတော်ကို လေ့လာတွေ့ရှိရပါသည်။

အခါတစ်ပါး ရွာထဲမှ ဒကာ ဒကာမတို့သည် ဆရာတော်ကြီးအား အဖူးအမြော်



လာကြ၏။ ကျက်သရေခန်းအား လှည်းကျင်းပြင်ဆင်ပေးကြ၏။ နေရာမလပ် ခြင်ထောင်တွင်လည်းကောင်း၊ အခင်း၊ ဖျာ၊ ခေါင်းအုံး၊ စောင်တို့တွင်လည်းကောင်း၊ ကြမ်းပိုးများကို မြောက်မြားစွာ တွေ့ရလေသည်။ ချက်ခြင်းပင် နေပူထဲထုတ်ပြီး ကြမ်းပိုးများကို ရှင်းလင်းပေးကြသည်။ ဆရာတော်ဘုရားကြီးမှာ ထိုအခြင်းအရာကို မြင်သောအခါ အို နေပါစေကွာ သတ္တဝါတွေကို အနေအထိုင် ပျက်စေတာ မကောင်းပါဘူးကွယ်ဟူ၍ ပြောလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၁)

နဲသမိန်ဆရာတော်ဘုရား ရှိစဉ်က ရွာသူတို့၏ ဝေလေ့သဘောကို ပြုံးကာဖြင့် သည်းခံတော်မူကြောင်း ပြောစမှတ်ရှိကြပါသည်။

အခါတစ်ပါး၌လည်း ပင်လုံးညွတ်မျှ မွှေးကြိုင်ကာ ပွင့်လျက်ရှိသော စကားစိမ်းပန်းများအား ရွာထဲမှ လုပျိုဖြူတစ်သိုက်သည် ရေကန်သို့ သောက်ရေလာခပ်ကြရင်း တွေ့သွားကြကာ အားပါးတရခူးလျက် ရှိနေကြပါသည်။ ထိုအခြင်းအရာကို တွေ့ရှိသော ကိုရင်ကြီးတစ်ပါးက ဆရာတော်ကြီးအား အကျိုးအကြောင်း ပြောပြတိုင်ကြားလေသည်။ ဆရာတော်ကြီးက အနည်းငယ်ပြုံးလိုက်ကာ ပန်းဆိုတာမျိုးဟာ မိန်းကလေးတွေ ကြိုက်တတ်တာမျိုးပဲလေဟူ၍ ပြန်ပြီး ကိုရင်ကြီး၏ တိုင်ကြားချက်ကို ဖြေကြားတော်မူလိုက်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂ )

## ဆရာတော်ကြီး ရေသောက်ခြင်းအကြောင်း မှတ်သားဖွယ်

ဆရာတော်ကြီးသည် သည်းခံခြင်းတရားလက်ကိုင်ထား၍ ခန္တီဝန်ကို သည်းခံခြင်းနှင့်အတူ တပည့်များကိုလည်း အလွန်ညှာတာတော်မူသည်ဟု ဥဒါန်းတွင်ပါသည်။

အခါတစ်ပါး၌ ဆရာတော်ကြီးမှာ နာမကျန်းကြီးစွာဖြစ်လျက် မထနိုင် မလျှောက်နိုင် လောက်အောင် အားနည်းပင်ပန်းလျက် ရှိနေခဲ့ပါသည်။ ရပ်ရွာထဲမှ တပည့်သားမြေးတို့သည် ကျောင်းသို့သွား၍ အိပ်ကြပါသည်။ တစ်ခုသောညတွင် စောင့်သောသူများ အိပ်ပျော်လျက်ရှိကြသည်။ ဆရာတော်ကြီးမှာ ရေသောက်လိုဟန်တူပါသည်။ ခုတင်ပေါ်မှ အောက်သို့ အနိုင်နိုင် ဆင်းရင်း ၁၀ ပေခန့်ဝေးသော သောက်ရေအိုးရှိရာသို့ ဖင်ရွှေ့သွားကာ သောက်ခဲ့ရာမှ တုန်တုန်ချိချိနှင့် ပြန်လာရာတွင် စောင့်အိပ်နေသူများနိုးသဖြင့် ဝိုင်းဝန်းကြကာဖေးမ၍ အိပ်ရာသို့ ပို့ခဲ့ကြရပေသည်။ ဆရာတော်ကြီးမှာ သူတစ်ပါးအား ညှာတာစိတ် အလွန်ထားတတ်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂-၁၃)

## ခြင်ထောင်အလှူခံသူကို လှူလိုက်၍ ခေါင်းမြီးခြုံအိပ်ရခြင်း

ဆရာတော်ကြီး သက်တော်ရှိစဉ်က အံ့ဖွယ်အဖြစ်တစ်ခု ဖြစ်ခဲ့ဖူးလေသည်။ ထိုအချက်မှာ ခြင်ထောင်အလှူခံသူရှိသဖြင့် ခြင်ထောင်ကို လှူလိုက်သောကြောင့် ခြင်ထောင်မရှိ၍ စောင်ခြုံအိပ်ရသော ဖြစ်ရပ်မှန်ဖြစ်ပါသည်။ သူလိုငါလိုလူများ ကျင့်ကြံရန် ခဲယဉ်းကြောင်း တွေးဆမိပါသည်။

အခါတစ်ပါး၌ ဒကာ၊ ဒကာမများသည် ဥပုသ်နေ့၌ ဆရာတော်ကြီး၏ ကျိန်းစက်ရာ



ကျက်သရေခန်းထဲသို့ ဝင်ရောက်သွားကြသောအခါ ကျိန်းစက်လေ့ရှိသော အိပ်ရာခုတင်ပေါ်တွင် ခြင်ထောင်သည်မရှိဘဲ ဟာလာဟင်းလင်းဖြစ်ပြီး သင်္ကန်း ခေါင်းမြီးခြုံကာ ကျိန်းစက်နေသည်ကိုတွေ့ရပါသည်။ တပည့် ဒကာ၊ ဒကာမများက အကျိုးအကြောင်း မေးမြန်းကြသောအခါ လူတစ်ယောက် အိပ်စရာမရှိလို့ အလှူလာခံတာနဲ့ ဖြုတ်ပြီး လှူလိုက်ပြီဟူ၍ ပြန်ပြီးဖြေပါသည်။ ဒကာ ဒကာမများမှာ ဝမ်းနည်းဝမ်းသာဖြစ်မိကြရင်း အဆောတလျင် ခြင်ထောင်အသစ် ချုပ်ပေးခဲ့ရဖူးသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃)

## ဆရာတော်ကြီးနှင့် ငွေအသပြာ

နဲသမိန်ဆရာတော်ကြီးမှာ ဘယ်သောအခါမှ ကိုယ်ပိုင်ငွေရှိသည်ဟူ၍ မကြားဖူးကြောင်း ဖတ်ရှုရပါသည်။ မဆန်းဟုဆိုသော်လည်းဆန်းပါသည်။

ဆရာတော်ကြီးမှာ သူ့အတွက် ဒကာ ဒကာမများ ဒုက္ခမဖြစ်စေလိုဘဲ သူ့ကသာလျှင် သတ္တဝါများအတွက် အနစ်နာခံသွားလျက်ရှိခဲ့ပါသည်။ ဆရာတော်ကြီးတွင် ဘယ်သောအခါတွင်မှ ငွေရှိသည်ဟူ၍မရှိပေ။ လှူဒါန်းသူများရှိ၍ ငွေရလာသောအခါ ထိုငွေအား လှူဒါန်းဒါနပြုရန်သာ အစဉ်အမြဲ စိတ်ကူးနေတတ်ပြီး အများအကျိုးအတွက် ကုန်အောင်သုံးလိုက်သည်သာများသည်။

စားသောက်ဖွယ်ရာ ခဲဖွယ်ဘောဇဉ်တို့ကိုပင် ကျောင်းတွင် မည်မျှ များပြားသည်ဖြစ်စေ၊ မည်မျှကောင်းမွန်သော စားသောက်ဖွယ်ရာသည်ပင်ဖြစ်စေ ကျောင်းလာသမျှသော ဧည့်ပရိသတ်တို့အား နေ့ဖို့ညစာဟူ၍ သိမ်းထားခိုင်းလေ့မရှိဘဲ အကုန်အစင် ကျွေးမွေးပေးကမ်းလေ့ရှိပါသည်။

## သဲအင်းဂူ ဆရာတော်ကြီး ကြွရောက်လာခြင်း

အခါတစ်ပါး၌ မြန်မာပြည်တွင် ထင်ရှားကျော်စောလှသော ရဟန္တာအရှင်မြတ်ဟူ၍ သမုတ်ကြသော မော်ဘီ သဲအင်းဂူ ဆရာတော်ကြီးသည် နဲသမိန်အထက်ကျောင်း ခေမာသီဝံကျောင်းတိုက်ကြီးသို့ ကြွရောက်လာပါသည်။

ရေကန်တော်ကြီးထဲတွင် လောင်းလှေဖြင့် လှည့်လည်ဖူးမြော်ခံယူရင်း ဆရာတော်ကြီးနှင့်လည်း တရားဒေသနာများ ဆွေးနွေးကြ၍လည်းကောင်း၊ တပည့် ဒကာ၊ ဒကာမတို့အား တရားဘာဝနာဟောကြားပြသ ဆိုဆုံးမ၍လည်း ကောင်း၊ ၂ ရက် ၃ ရက်မျှ သီတင်းသုံးနေထိုင်ပြီးမှ ပြန်ကြွသွားပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၁၆-၁၇)

(ကျမ်းကိုး။ စီစဉ်ရေးသားသူ ဦးအောင်သန်း၊ နဲသမိန်ရွာ၊ ရဟန္တာအရှင်မြတ်ဟု သမုတ်ခြင်းခံခဲ့ရသော မော်ဘီ ခရိုင်၊ ထန်းတပင်မြို့အပိုင် နဲသမိန်ကျေးရွာ ကျေးရွာရှင် ဆရာတော်ကြီး ဦးကေသရ၏ ထေရုပ္ပတ္တိ၊ ပထမအကြိမ် ၁၉၇၂ ခု၊ ဇန်နဝါရီလ၊ နဲသမိန်ရွာ၊ ပရဟိတအသင်း နဲသမိန်ကျေးရွာ ထန်းတပင်မြို့နယ်)

ရုပ်ကလာပ်တော်ကို နှစ်ရှည်လများ ကိုးကွယ်ပြီးနောက်

ယခုတစ်ဖန် မီးသင်္ဂြိုဟ်တော်မူသောအခါ ဓာတ်တော်များကျတော်မူသော

ဝန်းသိုမြို့ ဒုတိယ ခန္တီးဆရာတော်

# အသျှင်သုဇန

အေဒီ ၁၈၉၄ – ၁၉၈၆ ( ၁၂၅၆ – ၁၃၄၈ )





ဦးသုဇနသည် ဒုတိယ ခန္တီးဆရာတော်ဟု ခေါ်ဝေါ်ကြသော ဆရာတော်ကြီး ဖြစ်ပါသည်။ ရဟန္တာဟု သမုတ်ပြီး အထူးပူဇော်ခြင်းခံခဲ့ရသော ဆရာတော်ကြီး ဖြစ်ပါသည်။ ဒုတိယ ခန္တီးဆရာတော် အရှင်သုဇန၏ ရုပ်ကလာပ်တော်ကို ရွှေသားအတိချ၍ ပူဇော်ထားကြောင်း သိရပါသည်။

(ကျမ်းကိုး။ မောင်မိုးစည်၊ အာဇာနည်များ ပေါက်ဖွားရာ ဝန်းသို၊ ဝဏ္ဏိရ မဂ္ဂဇင်း၊ ၁၉၉၆ ခု၊ မေလ၊ အမှတ် ၁၀ ၊ စာ ၄၀)

၁၈၉၄ ဆရာတော်ကြီး၏ ဇာတိမှာ မကွေးတိုင်းဒေသကြီး၊ ပခုက္ကူခရိုင်၊ ဂန့်ဂေါမြို့နယ်၊ ကန်စွန်းတောင်ကျေးရွာဖြစ် ဇာတိဖြစ်ပါသည်။ အေဒီ ၁၈၉၄ ခု၊ စက်တင်ဘာလ ၂၁ ရက်၊ (မြန်မာသက္ကရာဇ် ၁၂၅၆ ခု၊ တော်သလင်းလပြည့်ကျော် ၈ ရက်) မှာ ဦးလယ်ရောက်၊ ဒေါ်ရွှေမြင့်တို့၏ ဒုတိယ သားရတနာအဖြစ် ဖွားမြင်ခဲ့ပါသည်။ မိဘများက မောင်သာတိုးဟု ခေါ်ခဲ့ကြပါသည်။

ငယ်စဉ်ဘဝ သူငယ်ချင်းများနှင့် ကစားရာမှာ ကျောက်ဖျာကြီးထက်တွင် တင်ပျဉ်ဖွဲ့ခွေထိုင်ပြီး တရားဟောတမ်းကစားသတဲ့။ သူငယ်ချင်းတွေကလည်း မှီတွေ၊ မှျစ်တွေချိုးပြီး လှူဒါန်းပူဇော်ခံ ကစားခဲ့ကြောင်း သိပါသည်။ အလွန်ဆန်းပါသည်။

၁၉၀၀ ၁၉၀၀ ခုနှစ်တွင် ကန်စွန်းတောင်ရွာ တောင်ပေါ်ကျောင်းဆရာတော် ဦးဥေယျထံမှာ ပရိတ်ကြီးကို သင်ကြားခဲ့ပြီး ၁၉၀၅ ခုတွင် ရှင်သာမဏေဘောင်ကို ဝင်ရောက်ခဲ့ပါသည်။ ဘွဲ့အမည်က သျှင်သီရိ ဖြစ်ပါသည်။ သျှင်သီရိငယ်စဉ် သာမဏေဘဝမှာပဲ စာတော်ပြီး ရိုးသားသိမ်မွေ့ခဲ့သူ ဖြစ်ပါသည်။

၁၉၁၁ ၁၉၁၁ ခုနှစ်တွင် သျှင်သီရိသည် ဆရာတော် ဦးဂန္ဓမာ၏ အစီအစဉ်ဖြင့် လူဝတ်လဲသည်။ ပခုက္ကူ ဝိသုတာရာမ(ပါဠိတက္ကသိုလ်)ကို စာသင်ဖို့ထွက်လာပါသည်။

၁၉၁၂ ၁၉၁၂ ခုနှစ်တွင် ဝန်းသိုမြို့သို့ ကြွသွားပါသည်။ ဝန်းသိုမြို့က ခန္တီးကျောင်းတိုက်ဆိုသည်မှာ စော်ဘွားကြီး ဦးအောင်မြတ်၏ ဖခင် ဦးရွှေသားက ၁၈၆၈ ခုနှစ်တွင် လှူဒါန်းခဲ့သော ကျောင်းကြီးဖြစ်ပါသည်။ ထိုစဉ်က ဦးကိတ္တိအမည်ရှိ ရှမ်းဘုန်းကြီးတစ်ပါးကို ကိုးကွယ်ခဲ့ပါသည်။ ဘုန်းကြီးကျောင်းနေရာမှာ ယခု ရဲစခန်းဆောက်ထားသော ကုန်းနေရာဖြစ်သည်ဟု သိရပါသည်။

၁၈၈၂ ၁၈၈၂ ခုနှစ်တွင် ဦးအောင်မြတ်သည် ဝန်းသိုစော်ဘွား ဖြစ်လာပါသည်။ ဖခင်ဖြစ်သူ ဦးရွှေသားသည် မိုးကောင်းမြို့ဝန် ဖြစ်သွားပါသည်။ ဝန်းသိုစော်ဘွားကြီး ဦးအောင်မြတ်ကို မြန်မာဘုရင်က မဟာသီရိ ဇေယျသိုဟုံဘွား၊ မောရိယမဟာဝံသ သီရိသုဓမ္မရာဇာသိုဟုံဘွား စသော ဘွဲ့ထူးများ ချီးမြှင့်ခဲ့ကြောင်း သိရပါသည်။

အင်္ဂလိပ်နယ်ချဲ့များ ခန္တီးကျောင်းဝင်းအတွင်း ဝင်ရောက် တပ်စွဲခဲ့ကြပါသည်။ ထိုသူတို့ ပြန်ဆုတ်သွားသောအခါ မူလ ပထမ ခန္တီးဘုန်းကြီးကျောင်းသည် မီးလောင်သွားကြောင်း သိရပါသည်။

၁၈၉၂ ၁၈၉၂ ခုနှစ်တွင် ခန္တီးကျောင်းအသစ်ကို ယခုလက်ရှိနေရာတွင် ပြန်လည်ဆောက်လုပ်ခဲ့ကြောင်းသိရပါသည်။

၁၉၁၃ ၁၉၁၃ ခုနှစ်တွင် ခန္တီးစာသင်တိုက်ဟု ဖြစ်ပေါ်လာပါသည်။ ပထမခန္တီးဆရာတော်မှာ ဦးစန္ဒိမာဖြစ်ပါသည်။ ဒုတိယ ခန္တီးဆရာတော်၏ ဘွဲ့တော်မှာ သျှင်သီရိ ဖြစ်ပါသည်။ ထို့နောက် အရှင်သုဇနဟူ၍ ပထမဆရာတော်ကြီးက ဘွဲ့ကို ပြောင်းလွှဲ ခေါ်တွင်စေခဲ့ပါသည်။ ဒုတိယ ခန္တီးဆရာတော်ဖြစ်လာမည့် ဦးသုဇနသည် ဝန်းသိုတွင် မပျော်ပိုက်ကြောင်း သိရှိရပါသည်။ ထိုအခါ မန်လည်ဆရာတော်ဘုရားကြီးက -



"အေး ငါလဲ မဲဇာလိုစိမ့်ကြီး မြိုင်ကြီးနဲ့နီးတဲ့ မန်လည်အရပ်မှာနေဖို့ ကြုံကြိုက်လာပြီဟာကိုးနေရတာပေါ့။ မင်းလဲ တောမှာနေဖို့ အခွင့်ကြုံလာပြန်တာကိုးကွယ့် နေသာနေပါကွယ်။ ဝန်းသိုက မပြန်ပါနဲ့တော့"ဟု မိန့်တော်မူခဲ့၏။ ထို့ကြောင့် ဝန်းသိုမှာပင် ဆက်လက်သီတင်းသုံးကြောင်းသိရပါသည်။ ၎င်းနောက် ယင်းမာတွင် ၃ နှစ် သီတင်းသုံးခဲ့ပြန်သည်။ ရဟန်း ၉ ဝါအရတွင် ဝန်းသိုသို့ ပြန်ကြွခဲ့၏။ ပထမ ခန္တီးဆရာတော်ကြီး၏ မှာကြားချက်အရဖြစ်၏။

၁၉၂၂ ၁၉၂၂ ခုနှစ်တွင် မန္တလေးမှာ စာသင်ခဲ့ရ၏။ မန္တလေးတွင် စာသင်နေစဉ်အတောအတွင်း တောင်ခွင်သာသနာပိုင်ဆရာတော်ကြီးနှင့် ကျောက်ပန်းတောင်းဆရာတော်ကြီးတို့က ရှင်သုဇန၏ ဝိနည်း သိက္ခာ ထိန်းပုံကို သာဓုသုဇနမာမက ဟူသော ဘွဲ့တော်ကို ပေးအပ်သည်ဟုသိရပါသည်။ ထိုခေတ်က မန္တလေးတွင် အငြိမ့်ဇာတ်ပွဲများပေါ်များခဲ့၏။ သို့သော်ရှင်သုဇနသည် တစ်ခါမျှပွဲမကြည့်ဖူးဟုသိရပါသည်။

ဝန်းသိုသို့ ပြန်ရောက်သောအခါ တိုက်အုပ်ဖြစ်လာပါသည်။ အရှင်သုဇနသည် တစ်နေ့လျှင် စာဝါ ၁၂ ဝါ ပို့ချသည်ဟု သိရပါသည်။ ပထမ ခန္တီးဆရာတော်ကြီး ဦးစန္ဒိမာသည် သုသာန်သို့ ညတိုင်းကြွရောက်သည်။ တရားအားထုတ်ရာတွင် ဒုတိယ ခန္တီးဆရာတော်ဖြစ်လာမည့် ရှင်သုဇနကိုလည်း ခေါ်သွားလေ့ရှိကြောင်း သိရပါသည်။

၁၉၃၂ ၁၉၃၂ ခုနှစ်တွင် ပထမ ခန္တီးဆရာတော်ကြီး ပျံလွန်တော်မူခဲ့ပါသည်။ ထိုအခါ အရှင်သုဇနသည် ဒုတိယ ခန္တီးဆရာတော် ဖြစ်လာခဲ့ပါသည်။

၁၉၄၀ ၁၉၄၀ ခုနှစ်တွင် မန္တလေး သုဓမ္မာ ဆရာတော်များအဖွဲ့ချုပ်က ကသာခရိုင်၊ ဝိနည်းဓိုရ် ဘွဲ့တံဆိပ်နှင့် ဓမ္မကထိက ဘွဲ့တံဆိပ်တော်တို့ကို ချီးမြှင့်ခဲ့ကြောင်း သိရပါသည်။ ဆရာတော်သည် ဒုတိယကမ္ဘာစစ်အတွေ့အကြုံ စစ်ကြေးမုံကိုလည်းကောင်း၊ သုဇနော ဝါဒ ပကာသနီ၊ ဝန်းသို ရာဇဝင်သစ်၊ ပရမတ်ခွဲကျမ်း၊ အနတ္တ သာသနာရဲ့ အဘိဓမ္မသဘာဝရုပ်နာမ် သကြံန်စာ၊ အာနာပါန ကမ္မဋ္ဌာန်းကျမ်းနှင့် အိန္ဒိယ၊ သီဟိုဠ်၊ နီပေါ၊ ခရီးမှတ်တမ်းများ ရေးသားပြုစုခဲ့ကြောင်းသိရပါသည်။

၁၉၄၂ ၁၉၄၂ ခုနှစ်တွင် စာသင်ခြင်းကို ခေတ္တရပ်နားပြီး ပြည်သူများနှင့်အတူ စစ်ပြေးဘဝရောက်ခဲ့သည်ဟု သိရပါသည်။ ဝန်းသိုနှင့် ၄ မိုင်ကျော်ဝေးသော ကျောက်မြောင်းဟူသောရွာကလေးမှာ ရွာသူရွာသားများကို ဝေဿန္တရာဇာတ်တော်ကြီး ဟောကြားခဲ့ကြောင်းသိရပါသည်။ ထိုနေရာတွင် ဒုတိယခန္တီးဆရာတော်၏ တရားထိုင် ကျောက်ဂူ အမှတ်တရကို ယနေ့တိုင် မြင်နိုင်ပါသေးသည်။ ထိုစစ်တွင်းကာလဝယ် စစ်ပြေး ဝတ်ရွတ်စဉ်ဟူ၍လည်း ပြုစုခဲ့သေး၏။

သက်တော် ၅၈ ဝါတော် ၃၈ ဝါ ရသောအခါ ဝိပဿနာအလုပ်ကိုသာ ဇောက်ချလုပ်ခဲ့၏။ ရန်ကုန်မှာ မဟာစည်ဆရာတော်၊ ရွှေမင်းဝံဆရာတော်၊ စသော ဆရာတော်များနှင့် တရားဓမ္မ သွားရောက်ဆွေးနွေးခဲ့သည်ဟုသိရပါသည်။

၁၉၅၃ ၁၉၅၃ ခုနှစ်တွင် ခန္တီးစာသင်တိုက်ကို တပည့်များအား အပြီးအပိုင် လွှဲအပ်သွားကြောင်းသိရပါသည်။

၁၉၅၅ ၁၉၅၅ ခုနှစ်တွင် နိုင်ငံတော် အစိုးရက ကသာခရိုင် ဝိနည်းဓိုရ် တံဆိပ်ကို ဆက်ကပ်လှူဒါန်းခဲ့၏။ ဆဋ္ဌသင်္ဂါယနာ ပွဲတော်ကြီးတွင် သာသနာ့ဝန်ကို စွမ်းစွမ်းတမံ ဆောင်ရွက်ခဲ့သဖြင့် ဆဋ္ဌသင်္ဂီတိ ပါဠိဝိသောဓကဘွဲ့တံဆိပ်တော်နှင့် ဆဋ္ဌသင်္ဂီတိ ဘာဏက ဘွဲ့တံဆိပ်တော်တို့ကို ဆက်ကပ်လှူဒါန်းခြင်း ခံရကြောင်း သိရပါသည်။



၁၉၅၆ ၁၉၅၆ ခုနှစ်တွင် သီရိလင်္ကာမှာ ကျင်းပသော ဗုဒ္ဓဇယန္တီပွဲတော်ကြီးကို ကြွရောက်ခဲ့သည်။ ထို့မှတစ်ဆင့် အိန္ဒိယနှင့် နီပေါသို့လည်း ကြွရောက်ခဲ့သေး၏။

၁၉၆၂ ၁၉၆၂ ခုနှစ်တွင် နိုင်ငံတော်အစိုးရက အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကို ဆက်ကပ်လှူဒါန်းခဲ့ပါသည်။

၁၉၆၅ ၁၉၆၅ ခုနှစ်တွင် မှော်ဘီမြို့မှာ ဂိုဏ်းပေါင်းစုံ သံဃာအစည်းအဝေးကြီး ကျင်းပခဲ့ရာ ခန္တီးဆရာတော်လည်း အပါအဝင်ဖြစ်ကြောင်း ဦးစီးနာယက တာဝန်ထမ်းဆောင်ခဲ့ကြောင်း သိရပါသည်။

ဆရာတော်ကြီးသည် ကျောက်တောင်ပေါ်မှာ ဂဏန်းတိုင်းရင်းသား ဦးသာဒင် ဆောက်လုပ်လှူဒါန်းခဲ့သော သစ်သားကျောင်းပေါ်တွင် သီတင်းသုံးပြီး ကျောက်ဖျာ ပေါ်တွင် တရားအားထုတ်လေ့ရှိကြောင်း သိရပါသည်။ တရားအားထုတ်သောအခါမှာ ပိုးမွှား မှက် ခြင် ကိုက်ခဲ သွေးစုတ်သည်ကို လုံးဝ ဂရုမစိုက်ဘဲ ဝိပဿနာကိုသာ အာရုံမပျက် ရှုမှတ်လေ့ရှိကြောင်း သိရပါသည်။

တောထဲတွင် မှိုရှာလာသူများ မျှစ်ချိုးလာသူများက ပြောပြ၍ သိရသည်မှာ သစ်ပင် ချုံနွယ်များအကြားတွင် ဆရာတော်ကြီး၏ သင်္ကန်းအစကလေး တစ်စကို တွေ့ရသဖြင့် သွားရောက်ကြည့်ရှုရာ မှက် ခြင်ကြီးများ ဟုန်းခနဲ ထပျံသွားပြီး တရားထိုင်နေသော ဆရာတော်ကြီး ပေါ်လာကြောင်း ပြောဆိုကြပါသည်။

တစ်ရံရောအခါကလည်း ဆရာတော်ကြီးသည် လမိုက်သော ညတစ်ညမှာ ကျောက်ဖျာပေါ်တွင် တရားရှုမှတ်နေစဉ်ကာလဝယ် ကောင်းကင်ကြီးတစ်ခုလုံးလျှပ်စီးလက်ပြီး မိုးကြိုးကြီးပစ်ချရာ အနီးရှိသစ်ပင်ကြီးတစ်ပင်မှာ မိုးကြိုးပစ်ခံရ၍ မီးလောင်သွားကြောင်း သိရပါသည်။ ဆရာတော်ကြီးသည် တရားထိုင်မပျက်ဟု သိရပါသည်။

ထိုနေရာတွင် ခန္တီးဗောဓိအမည်ဖြင့် စေတီတစ်ဆူ တည်ထားသည်ကို ဖူးတွေ့ရပါသည်။

၁၉၇၅ ၁၉၇၅ ခုနှစ်တွင် ဂျပန် ဂျာမဏီ အီတလီစသော နိုင်ငံများမှာ နိုင်ငံခြားသားများ ဆရာတော်ကြီးထံ နည်းခံ၍ တရားထိုင်ခဲ့ကြောင်းသိရှိရပါသည်။

၁၉၈၆ ၁၉၈၆ ခုနှစ် ဇူလိုင်လ ၁၄ ရက်နေ့၊ ၁၃၄၈ ခု၊ ဝါဆိုလဆန်း ၈ ရက်၊ တနင်္လာနေ့တွင် ဗုတိယခန္တီး ဆရာတော် ဦးသုဇနသည် ခန္ဓာဝန်ချတော်မူခဲ့ကြောင်း သိရပါသည်။

၁၉၉၆ ၁၉၉၆ ခုနှစ်တွင် တိုကျိုမြို့ ဂျပန်စစ်မှုထမ်းဟောင်းအဖွဲ့ ဥက္ကဋ္ဌ မစ္စတာ အာကီဝါရာနှင့်အဖွဲ့ ဝန်းသိုမြို့သို့ လာရောက်ပြီး ခန္တီးဆရာတော်ကို ရည်စူးလျက် အလှူဒါန ပြုခဲ့ကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ မောင်မိုးစည်၊ အာဇာနည်များ ပေါက်ဖွားရာ ဝန်းသို၊ ဝဏ္ဏရမဂ္ဂဇင်း၊ အမှတ် ၉၊ ၁၉၉၆ ခု၊ မေလ စာ ၄၀ - ၄၉)

၂၀၀၃ ကြွင်းကျန်သောရုပ်ကလာပ်တော်သည် ပုပ်သိုးနံဟောင်ခြင်းမရှိသဖြင့် မှန်ကျောင်းတွင် ပူဇော်ထားခဲ့ရာမှ ၂၀၀၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်နေ့တွင် မီးသဂြိုဟ်တော်မူရာ မျက်ခုံးတော်နှင့် သွားတော်များ မီးမခဘဲ ကြွင်းကျန်ရစ်သည်။ ဓာတ်တော်များ တဖွားဖွားကျတော်မူကြောင်း သိရပါသည်။

မာတ်တော်များ တဖွားဖွားကျတော်မူသော စရေးအရှေ့ရွာ ရဟန္တာ

# ကန်တွင်းကျောင်းဆရာတော်ဘုရား

ခအေဒီ ၁၈၉၅ – ၁၉၈၅ ( ၁၂၅၇ – ၁၃၄၇ )





စစ်ကိုင်းမြို့ ကောင်းမှုတော်ဘုရားကြီးနဲ့ ၆ မိုင်လောက် အကွာအဝေးနေရာတွင် စရေးအရှေ့ရွာဟူ၍ ရွာတစ်ရွာရှိ၏။ ထိုရွာတွင် သီတင်းသုံးသည့် စရေးအရှေ့ရွာ ဆရာတော်ဘုရားကြီးသည် လွန်ခဲ့သော နှစ်များကပျံလွန်တော်မူ၍ မီးသင်္ဂြိုဟ်သောအခါဓာတ်တော်များကျပါသည်။ သပိတ်တစ်လုံးစာလောက်ရ ပါသည်။ ဓာတ်တော်အရွယ်အစား စုံစုံလင်လင်ရှိပါသည်။ မုန်ညင်းစေ့အရွယ် ဆန်ကျိုးအရွယ်တွေ များလှသည်ဟူ၍ သိရှိရပါသည်။ ထိုဓာတ်တော်များကို မိတ္ထီလာ ဝမ်းတော်ပြည့် ဓာတ်တော်တိုက်တွင် ဖူးမြော်နိုင်ပါသည်။

ထိုစရေးအရှေ့ရွာ ဆရာတော်ဘုရားကြီးအကြောင်းကို မှတ်တမ်းများတွင် ဖတ်ရှုရပါသည်။ ဆရာတော်ဘုရားကြီး၏ ဓာတ်တော်ကိုလည်း ယနေ့တိုင် ဖူးမြော်နိုင်ပါသည်။

၁၉၄၄ ထိုစရေးအရှေ့ရွာ ဆရာတော်ကြီးသည် အေဒီ ၁၉၄၄ ခု (၁၃၀၅ ခုနှစ်) လောက်က တည်းက တရားထူးတွေ့ပုံရပါသည်။ မင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီးထံတွင် လည်း နည်းနာခံဖူးခဲ့ကြောင်းသိရပါသည်။ ပရိယတ် ပရိပတ်စွယ်စုံ ပုဂ္ဂိုလ်ထူးဖြစ် ကြောင်းသိရပါသည်။ ဆဋ္ဌသင်္ဂါယနာတင်စဉ် အခါကလည်း တက်ကြွစွာ ပါဝင်ခဲ့ဖူး သည်။ မင်းကွန်းဇေတဝန် ဆရာတော်ဘုရားကြီး၏ရွာမှာ ကျောက်ပန်းရွာဖြစ်ကြောင်း သိရပါသည်။ ကန်ကြီးကုန်းရွာဆိုသည်မှာ စရေးအရှေ့ရွာနှင့် ၂ မိုင်လောက်ဝေး ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ထိုဆရာတော်ဘုရားကြီး၏ ဓာတ်တော်များကို ဓမ္မာစရိယဦးဌေးလှိုင် ပင့်ဆောင် လာသောကြောင့် မိတ္ထီလာမြို့ ဝမ်းတော်ပြည့်ဓာတ်တော်တိုက်တွင် ပူဇော်ထားကြောင်း သိရပါသည်။ ထိုသတင်းကို ဆရာတော် ဦးဃောသိတ ဓမ္မာစရိယဦးဌေးလှိုင်တို့၏ ဝမ်းတော်ပြည့် ဓာတ်တော်များသမိုင်း စာအုပ်မှရရှိပါသည်။ ၁၉၉၁ ခု၊ စက်တင်ဘာလ၊ ပထမအကြိမ်၊ စာ ၃၆)

ဝမ်းတော်ပြည့် ဓာတ်တော်များသမိုင်းမှ ထိုသတင်းအစအနကို ရရှိသဖြင့် အလွန်ကြည်ညို သောကြောင့် ဆက်လက်၍ မဟာထေရုပ္ပတ္တိကို ရှာဖွေမိပါသည်။ ထိုအခါ ထိုစရေးအရှေ့ ဆရာတော် ဘုရားကြီးဆိုသည်မှာ ကန်တွင်းကျောင်း ဆရာတော်ဘုရားကြီးကိုပင် ဆိုလိုကြောင်း သိရပါတော့သည်။

၁၉၈၄ ထိုဆရာတော် ဘုရားကြီးသည် အေဒီ ၁၉၈၄ ခု၊ စက်တင်ဘာ ၁၅ ရက်၊ (သက္ကရာဇ် ၁၃၄၇ ခုနှစ်၊ တော်သလင်းလပြည့်ကျော် ၆ ရက်) စနေနေ့ညနေ နေဝင်ချိန်တွင် တစ်ဘဝ ခန္ဓာသိမ်းတော်မူကြောင်း သိရပါသည်။

**ထိုအခါ ကြွင်းကျန်သော ရုပ်ကလာပ်တော်ကို ၅ လတိုင်တိုင် အပူဇော်ခံထားခဲ့ပါသည်။ သို့သော်လည်း ပုပ်သိုးခြင်း၊ ပျက်စီးခြင်း၊ လုံးဝမရှိသည့်အပြင် ဆံတော်များကလည်း သက်ရှိ ထင်ရှားကဲ့သို့ပင် ရှည်၍ရှည်၍လာကြ၏။ ထို့ကြောင့် မကြာခဏ ရိတ်၍ရိတ်၍ပေးရ၏။ ခြေသည်းလက်သည်းများကလည်း ရှည်၍ရှည်၍လာကြ၏။ ထို့ကြောင့် မကြာခဏ လှီး၍လှီး၍ ပေးရ၏။**

ဤသို့သော ထူးခြားချက်များအပြင် ရုပ်ကလာပ်တော်မှ အလင်းရောင်များ ထွက်ပေါ်လာ သည်ကလည်း လူအများအတွက် ပို၍ ကြည်ညိုစရာဖြစ်လာပါသည်။ ဓာတ်ပုံဆရာများ၏ ပြောကြားချက် အရ သိရသည်မှာလည်း ခွင့်မပန်ဘဲ ဓာတ်ပုံရိုက်လျှင် မည်သည့်ပုံရိပ်မှမပေါ်ကြောင်း လက်တွေ့ကျကျ ပြောဆိုလာကြပါသည်။

၁၉၈၆ သို့နှင့် အေဒီ ၁၉၈၆ ခု၊ ဖေဖော်ဝါရီလ ၂၁ ရက်၊ (၁၃၄၇ ခုနှစ်၊ တပို့လဆန်း ၁၂ ရက်) သောကြာနေ့တွင် အန္တိမစျာပနသဘင်ကို ပြုလုပ်ကြပါသည်။ ၅ လမျှ အပူဇော်ခံခဲ့ပြီး ဖြစ်ပါသည်။ ထိုအခါ ရဟန္တာကြီးတစ်ပါး ပရိနိဗ္ဗာန်ပြုသည်ဟု ရပ်ဝေးရပ်နီးမှ လူအပေါင်းတို့က အုတ်အုတ်သဲသဲ လာရောက်ပူဇော်ကြပါသည်။



အနီးနေအတွင်းကျကျ တပည့်များ၏ပြောကြားချက်အရ ကြွင်းကျန်သော ရုပ်ကလာပ်တော်တွင် အနာဟောင်းကြီးတစ်ခုရှိကြောင်း ပြောကြားကြပါသည်။ ထိုအနာဟောင်းကြီးရှိသည်ကို မည်သူမျှ မသိကြဟု ဆိုပါသည်။ ဆရာတော်ကလည်း ဘာမျှမပြောဟုဆိုပါသည်။

ခန္ဓာဝန်ချသောအခါမှ တွေ့ကြရသဖြင့် အားလုံးမှာ ရင်ထုမနာဖြစ်ကြရသည်ဆိုပါသည်။ ထိုသို့သော အနာဟောင်းကြီး ရှိနေပါသော်လည်း ၅ လတိုင်တိုင် အပူဇော်ခံရာတွင် မည်သို့မှ ပုပ်သိုးပျက်စီးခြင်း အနံ့ထွက်ခြင်းမရှိသည်မှာလည်း အံ့သြကြည်ညိုဖွယ်ဖြစ်ကြောင်း ပြောဆိုနေကြပါသည်။

ထူးခြားသော အချက်တစ်ချက်မှာ ရုပ်ကလာပ်တော်ကို မီးရှို့သင်္ဂြိုဟ်ကြရာတွင် ဒုံးကျည် ယန္တရားများဖြင့် အပြင်းအထန်မီးရှို့ခြင်းဖြစ်သော်လည်း သင်္ကန်းတော်ကလည်း မီးမလောင်၊ မီးမစွဲ၊ ကိုယ်လုံးတော်ကလည်း မီးမစွဲ၊ မီးမလောင်၊ ဤသို့နှင့် နာရီပေါင်း ၆ နာရီခန့် ကြာညောင်းခဲ့၏။ သို့နှင့် ညသန်းခေါင်သို့ ရောက်တော့၏။

ထိုအခါ ည ၁၂ နာရီကလည်း ကျော်လာပြီဖြစ်သဖြင့် အတော်ကလေး ရုတ်ရုတ်သဲသဲ ကျွက်စီကျွက်စီဖြစ်နေပေတော့သည်။ ထိုအခါ ဦးဝါယမ ဟူသော ဆရာတော်က အကြောင်းတော့ရှိပါလိမ့်မည်ဟု စဉ်းစားမိသည်ဆို၏။ ထိုဆရာတော်မှာ ထားဝယ်မြို့ မြို့လယ်ကျောင်းတိုက် ဆရာတော်ဖြစ်၏။ ထို့ကြောင့်ပင် ထိုဆရာတော် ဦးစီး၍ တပည့်ရဟန်း အပေါင်းတို့က ဆရာတော်ကြီးအားကန်တော့ကြ၏။ ဆရာတော် အရှင်မြတ်ကြီးဘုရား တပည့်တော်တို့တွင် အပြစ်ကြီး အပြစ်ငယ်ရှိပါက ခွင့်လွှတ်တော်မူပါဘုရားဟု ၃ ကြိမ် ၃ ခါ ဝန်ချတောင်းပန်၏။ ထိုသို့ တောင်းပန်အပြီးတွင် ချက်ခြင်းပင် မီးလောင်ကျွမ်းကာ ပြာကျတော်မူ၏။ အလွန်အံ့ဖွယ်ဖြစ်ပါသည်။

မီးသင်္ဂြိုဟ်ပြီး၍ ရက်ပေါင်း ၄၉ ရက်ပြည့်သောနေ့တွင်ကား တစ်မျိုးတစ်ဖုံ ထူးခြားပြန်တော့သည်။ ညအခါ ရောင်ခြည်တော်များ ထိုနေရာမှ ကွန့်မြူး၏။ ၎င်းအပြင် သက်တံရောင်များလည်း ထိုနေရာမှာပင် ရောင်စုံထွက်ပေါ်ပြန်၏။ ၎င်းအပြင် ကြေးစည်သံ အုန်းမောင်းသံများလည်း ထိုနေရာမှာပင် ကြားရပြန်၏။ ဤသို့ အံ့ဖွယ်အရောင်အဆင်း အသံဗလံများ ဖြစ်ထွန်းကြ၏။ အရောက်သွား၍ ကြည့်သောအခါ မြတ်လေးငုံအဆင်းရှိသော ဓာတ်တော်များကို ဖူးမြော်ကြရလေတော့သည်။ ဓာတ်တော်များမှာ ၃ ပြည်သားခန့်ရှိကြောင်း သိရပါသည်။

ထိုသို့သော အံ့ဖွယ်သတင်းထူးများကို ကြားရသဖြင့် ကျွန်ုပ်တို့မှာလည်း မဟာထေရုပ္ပတ္တိကို နောင်လာနောင်သားများ ဖတ်ရှုကြည်ညိုနိုင်အောင် မှတ်တမ်းပြုရရှာဖွေရနှင့် အတော်ကလေး အလုပ်များပါ၏။ သို့သော်လည်း မျက်မှောက်ခေတ် မြန်မာနိုင်ငံတွင် ထိုကဲ့သို့သော ရဟန္တာအရှင်မြတ်များ ပွင့်ပေါ်ကြပါသည်ဟု မှတ်တမ်းပြောရစ်အောင် မှတ်တမ်းတင်ရပါမည်။

၁၈၉၅ ဆရာတော်လောင်းလျာသည် စစ်ကိုင်းမြို့ အနောက်မြောက် ၄ မိုင်ခန့်အကွာ ညောင်ပင်စဉ် ကျေးရွာ အုပ်စု၊ မြင်းမွေးရွာ၌ အဘ ဦးဝ၊ အမိ ဒေါ်ရွှေကြဲတို့မှ အေဒီ ၁၈၉၅ ခု၊ မေလ ၁၄ ရက်၊ (သက္ကရာဇ် ၁၂၅၇ ခုနှစ်၊ ကဆုန်လပြည့်ကျော် (၇) ရက်) အင်္ဂါနေ့၊ နံနက် ၄ နာရီခန့်တွင် ဖွားမြင်တော်မူခဲ့ပါသည်။

မွေးချင်း ၅ ယောက် အနက် စတုတ္ထသားရတနာဖြစ်သည်ဟု သိရပါသည်။

ငယ်စဉ်အခါကတည်းက မိခင်က အိပ်မက်ကောင်းများ မက်သည်ဟု ဆိုပါသည်။ မိခင်၏ဝမ်းဗိုက်ထဲသို့ နေနှင့်လတို့ ဝင်ရောက်လာကြသည်ဟု အိပ်မက် မက်သည်ဟု ဆိုပါသည်။ ထိုသို့ နေနှင့်လကို ရင်ခွင်ပိုက်၍ မွေးဖွားသည်ဟု ဆိုပါသည်။ ထိုအိပ်မက်ကို ပြောပြသောအခါ ထိုကလေးသည် မုချပင်လျှင် ရှင်ဘုရင်ဖြစ်လိမ့်မယ်ဟု ဗေဒင်ဆရာများက ဟောကြားသည်ဟု ဆိုပါသည်။

သို့သော်လည်း တကယ့်တကယ်တွင်ကား ထိုကလေးငယ်သည် လောက၏ အထွဋ်အထိပ်ဖြစ်တော်မူသော ရဟန္တာမြတ်ကြီးဘဝတွင် ရောက်တော်မူခဲ့ပါသည်။ ဤသည်မှာလည်း နေနှင့်လ ကပင်လျှင် ပူဇော်ကန်တော့ရသော ရဟန္တာထူးရဟန္တာမြတ် ဖြစ်လာခဲ့ခြင်း အတိတ်နိမိတ်ဖြစ်လေသည်။



ငယ်စဉ်အခါက ရွှေကျောင်းဆရာတော်ထံတွင် သာမဏေပြုခဲ့သည့် စာသင်ခဲ့သည့် ရွှေကျောင်းမှာ မြင်းမွေးရွာတွင်ရှိ၏။

ဎင်းနောက် မန္တလေးသို့ ရောက်ခဲ့ပြန်သည်။ ထိုအခါ အရှေ့ဝိသုဒ္ဓါရာမကျောင်းတွင် စာသင်ခဲ့ရပြန်သည်။ ထိုအခါတွင် အရှင်စာရိတ္တနှင့် တွေ့ခဲ့ရသည်ဟုဆိုပါသည်။ ထိုအရှင်နှင့်ပင် စစ်ကိုင်းမြို့ အရှေ့ကန်တွင်းကျောင်းသို့ လိုက်ပါနေထိုင်ခဲ့ကြောင်း သိရပါသည်။ ထိုအခါက သက်တော် ၁၂ နှစ် အရွယ်ရှိပြီဟုဆိုပါသည်။ ရဟန်းဘဝသို့ရောက်သောအခါ ဘွဲ့တော်မှာ အရှင်ဉာဏိန္ဒဖြစ်သည်ဟု ဆိုပါသည်။

၁၉၁၄ ရဟန်းဘဝသို့ ရောက်သည့်နေ့စွဲမှာ အေဒီ ၁၉၁၄ ခု၊ ဇွန်လ ၁၇ ရက် (သက္ကရာဇ် ၁၂၇၆ ခု၊ နယုန်လပြည့်ကျော် ၁၀ ရက်) ဗုဒ္ဓဟူးနေ့ဖြစ်သည်။

ရဟန်းဖြစ်ပြန်သောအခါမှာလည်း မန္တလေးမှာပင် ဆက်၍ပညာသင်ခဲ့ပြန်၏။ မစိုးရိမ်ကျောင်းတိုက်တွင်လည်းကောင်း၊ အရှေ့ပြင် ခင်မကန်တိုက်တွင်လည်းကောင်း၊ တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက်တွင်လည်းကောင်း၊ ပညာသင်ကြား ဆည်းပူးခဲ့ရသည်ဟုဆိုပါသည်။

ထိုအချိန်တွင် စရေးအရှေ့ရွာ ကန်တွင်းကျောင်းဆရာတော်ကြီး အရှင်စာရိတ္တနာမကျန်းဖြစ်သောကြောင့် အရောက်သွားရသည်ဟုဆိုပါသည်။ ထို့နောက် ထိုကန်တွင်းကျောင်းပင်လျှင် စာပေပို့ချကာ နေတော်မူခဲ့ပါသည်။ ထိုကာလများတွင် ဆရာတော်သည် ထွက်ရပ်ပေါက် ပုဂ္ဂိုလ်များနှင့် အဆက်အသွယ်ရှိသည်ဟု ဆိုပါသည်။ လောကီ ဝိဇ္ဇာ ထွက်ရပ်ပေါက်လမ်းစဉ်ကို လိုက်နာကျင့်ကြံခဲ့သည်ဟု သိရပါသည်။ ထိုစဉ် ကာလများတွင် ဆရာတော်သည် ဟိန္ဒူဘာသာ၊ သက္ကဋဘာသာနှင့် အင်္ဂလိပ်ဘာသာစာပေများကို လေ့လာသင်ကြားတတ်မြောက်ခဲ့သည်ဟုဆိုပါသည်။ ထိုအခါက ဆရာတော်သည် မင်းကွန်း ဝိဇ္ဇာလင်္ကာရချောင်ဆရာတော် အရှင်သုန္ဒရာဘိဝံသထံတွင် ပညာသင်ခဲ့သည်ဟုဆိုပါသည်။

ထိုအချိန်တွင် ကန်တွင်းကျောင်းဆရာတော် အရှင်စာရိတ္တ ပျံလွန်တော်မူခဲ့ပါသည်။ ထိုအချိန်တွင် ကန်တွင်းကျောင်းကိုဆက်ခံခဲ့၏။ ကန်တွင်းကျောင်းဆရာတော်ဟု ကျော်စောလာခဲ့၏။

ဆရာတော်သည် လောကီ ပညာရပ်များကို နှံ့နှံ့စပ်စပ် လေ့လာလိုက်စား၏။ ဆေးဝါးမန္တရား၊ အင်္ဂါရတ်ပညာတို့တွင် ကျွမ်းကျွမ်းကျင်ကျင် ပေါက်မြောက်အောင်မြင်ခဲ့သည်ဟု ဆိုပါသည်။ ထိုအချိန်တွင် အပြောင်းအလဲတစ်ခု ဖြစ်လာခဲ့ပါသည်။ ဖြစ်ပုံမှာ ဤသို့ဖြစ်ပါသည်။

မိမိတွင် ငယ်ဆရာတစ်ပါး ရှိခဲ့ဖူး၏။ ထိုငယ်ဆရာမှာ စစ်ကိုင်းမြို့ အုတ်ဖိုရပ် ပန်းထိမ်ကျောင်းဆရာတော်ဖြစ်၏။ ထိုဆရာတော် ပျံလွန်တော်မူသောအခါ ရုက္ခစိုးကြီးဖြစ်လာသည်ဟုဆိုပါသည်။ သာမန်ရုက္ခစိုးမဟုတ်။ သောတာပန်ရုက္ခစိုးဖြစ်၏။ တစ်ဖြစ်ပြောင်း ဇာတ်လမ်းသည် ထိုသောတာပန်ရုက္ခစိုးကြီးကြောင့်ဖြစ်၏။ စကြဝတေးမင်း ဖြစ်နိုင်သည့် ကံကုသိုလ်ရှိပါလျက် ဇာတ်ပွဲထဲက ဘုရင်မျိုးကို ဘာကြောင့် လိုချင်တာလဲ။ မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်ဝင်နိုင်သည့် ကုသိုလ်ကံရှိပါလျက် အဘယ်ကြောင့် သံသရာရှည်အောင် ပြုရပါသနည်း ခရီးရှည်လေ အပူမီးတွေ ပွေလေပေ့ါဟု ထိုသောတာပန် ရုက္ခစိုးကြီးက ကိုယ်ထင်ရှားပြကာ ပြောဆိုမိန့်ကြားသည်ဟု သိရှိရပါသည်။

ထိုအခါ ဆရာတော်မှာလည်း စိတ်ထားပြောင်းကာ မိမိ၏ ဓာတ်လုံးများ မင်းဝံတောင်ရိုးလက်ပံရွာအနီးရှိ ဆေးအိုးချောင်တောင်တွင် ရှိသော စေတီတော် ၂ ဆူ တည်ထားရာတွင် လည်းကောင်း၊ မင်းကွန်း ဝိဇ္ဇာလင်္ကာရချောင် ဓာတ်ပေါင်းစုစေတီ တည်ထားကိုးကွယ်ရာတွင် လည်းကောင်း၊ ကန်တွင်းကျောင်းစေတီတော် တည်ထားကိုးကွယ်ရာတွင်လည်းကောင်း၊ ဓာတ်လုံးများကို ထည့်သွင်းပူဇော်လိုက်ပြီဟု သိရှိရပါသည်။ ဎင်းနောက်တွင်ကား ဆရာတော်သည် လောကီဝိဇ္ဇာလမ်းမှ လမ်းခွဲ၍ လောကုတ္တရာလမ်းသို့ ကူးပြောင်းလေသည်ဟုဆိုပါသည်။

**ပထမ ဆရာ**

ထိုအခါ ဆရာတော်ကြီး၏ ဆရာများမှာ သထုံမြို့ မင်းကွန်းဇေတဝန် ပထမဆရာတော်ကြီးဖြစ်၏။



**ဒုတိယ ဆရာ**

ဂုင်းနောက် မဟာစည် ဆရာတော်ကြီးဖြစ်၏။

**တတိယ ဆရာ**

ဂုင်းနောက် ရန်ကုန်တစ်ဖက်ကမ်း ဒလ၊ ပျော်ဘွယ်ကြီးရွာ အနာဂါမ် ဆရာသက်ကြီး ဖြစ်၏။ ထိုဆရာတော်များနှင့် ထိုဆရာကြီးထံတွင် ဝိပဿနာ နည်းနိဿယများကို လေ့လာပြီး အားထုတ်ခဲ့ကြောင်းသိရပါသည်။

**ဆရာရင်းဖြစ်သော ရဟန္တာ သထုံမင်းကွန်း ဆရာတော်ဘုရားကြီး ဓာတ်တော်များ ပွင့်ပေါ်ခြင်း**

သထုံမင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီးမှာလည်း ပရိနိဗ္ဗာန်ပြုသောအခါ ဓာတ်တော်များကျတော်မူပါသည်။ သုံးပြည်သားခန့် ပူဇော်စရာရရှိခဲ့၏ဟုသိရပါသည်။

**ဆရာရင်းဖြစ်သော ရဟန္တာ မဟာစည်ဆရာတော်လည်း ဓာတ်တော်များ ပွင့်ပေါ်ခြင်း**

မဟာစည် ဆရာတော်ဘုရားကြီးမှာလည်း အရိုးတော်မှ မုန်ညင်းစေ့သဏ္ဍာန်ရှိသော ဓာတ်တော်များ ရာပေါင်းများစွာ ပူဇော်ခံရန် ပွင့်ထွန်းဖြစ်ပေါ်ကြောင်း သိရှိရပါသည်။ ထိုသို့သောဆရာတော်ကြီးများထံ နည်းနာခံခဲ့၏ ဆိုပါသည်။

၁၉၄၃ စရေးဆရာတော်ဘုရားသည် အေဒီ ၁၉၄၃ ခု၊ (၁၃၀၅ ခုနှစ်)မှ စ၍ စရေးအရှေ့ရွာ ကန်တွင်းကျောင်းတိုက်အတွင်းဝယ် ကမ္မဋ္ဌာန်းတိုက်များ ဆောက်လုပ်ပြီးလျှင် တရားပြတော်မူသည်ဟု သိရှိရပါသည်။ မဟာသတိပဋ္ဌာန်၊ ဒွတ္တိံသကာယ (၃၂) ကောဋ္ဌာသ ဘာဝနာကို ပွားများစေသည်ဟု သိရှိရပါသည်။ ယောဂီပုဂ္ဂိုလ်များကိုလည်း စရိုက်အား လျော်စွာ နည်းညွှန်ပြသ အားထုတ်စေခဲ့သည်ဟု သိရှိရပါသည်။

၁၉၈၅ သို့နှင့် အေဒီ ၁၉၈၅ ခု၊ အောက်တိုဘာလ ၅ ရက်၊ (၁၃၄၇ ခုနှစ်၊ တော်သလင်း လပြည့်ကျော် ၆ ရက်) စနေနေ့ ညနေ နေဝင်ချိန်လောက်တွင် တစ်ဘဝ တစ်ခန္ဓာကို သိမ်းတော်မူခဲ့သည်ဟု သိရှိရပါသည်။

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း မြတ်လေးငုံအဆင်းရှိသော ဓာတ်တော်များ ၃ ပြည်ခန့်မျှ ပူဇော်ရန် ပွင့်ပေါ်ကြောင်း သိရှိရပါသည်။

ဤတွင် အထူးအားဖြင့် ယခုထက်တိုင် ပြောမကုန်နိုင်သော များစွာရှိပါသေးသည်။ ထိုအချက်များကို ကြားနာရသမျှ ကြည်ညိုနိုင်အောင် ဖော်ပြချင်ပါသေးသည်။

ဆရာတော်ကြီးသည် ကမ္မဋ္ဌာန်းတရားကို အနယ်နယ်သို့ ကြွရောက်၍ ဟောကြားခဲ့ပါသည်။ မင်းကွန်းသို့လည်း ရောက်၏။ မန္တလေးသို့လည်းရောက်၏။ ရွှေဘိုသို့လည်း ရောက်၏။ ကသာဘိုးသို့လည်း ရောက်၏။ ပဒူသို့လည်းရောက်၏။ ရမည်းသင်းသို့လည်းရောက်၏။ ထားဝယ်သို့လည်းရောက်၏။ ဤသို့ဖြင့် အနယ်နယ်သို့ ရောက်ခဲ့ပါသည်။

ဆဋ္ဌသင်္ဂါယနာတင်တော်မူသောအခါကလည်း စစ်ကိုင်းတိုင်း သာသနာ့ဝန်ဆောင်ကိုယ်စားလှယ် အဖြစ် ကြွရောက်တော်မူခဲ့၏။ အဘိဓမ္မာပညာဝါရ မဟာပဋ္ဌာန်း ကျမ်းတော်ကြီး ၅ ကျမ်းကို နှုတ်တက်ရွရွ ရွတ်ဆိုတော်မူကာ သာသနာ့အကျိုးဆောင်ခဲ့ကြောင်း သိရှိရပါသည်။ ဆဋ္ဌသံဂါတိဘာဏက သင်္ဂါယနာ ကြားနာတော်ခံ အကြံပေးအကျိုးတော်ဆောင်အဖြစ် ဆောင်ရွက်တော်မူခဲ့ကြောင်း သိရပါသည်။

လွတ်လပ်ရေးရပြီးသော ကာလများတွင်လည်း အံ့ဖွယ်ဖြစ်ရပ်ဆန်းများ ကြုံခဲ့ရပါသေးသည်။

၁၉၄၉ အေဒီ ၁၉၄၉ ခု (၁၃၁၁ ခုနှစ်) လောက်ကဖြစ်ခဲ့သော ဖြစ်ရပ်ဆန်းတစ်ခု ဖြစ်ပါသည်။ လက်နက်ကိုင် လူဆိုးဓားပြများသည် ဆရာတော်နေထိုင်သော ကျောင်းတွင်းသို့



ဝင်ရောက်စီးနင်းသည်ဟုဆိုပါသည်။ အကြောင်းရင်းမှာ လူဆိုးခေါင်းဆောင်သည် ဆရာတော်နှင့်အသိဖြစ်သည်။ ထို့ကြောင့် ဆရာတော်က မိမိအကြောင်းဖော်မည်စိုးသဖြင့် ဆရာတော်ကို အပြတ်ရှင်းလိုရင်းဖြစ်သည်။ သို့နှင့်ကျောင်းတွင်းဝင်ရောက်ကာ အသေအချာရှာသော်လည်း ရှာမတွေ့ခဲ့ပါဟုဆိုပါသည်။ အမှန်မှာ ဆရာတော်ကြီးသည် ဘယ်မှာမှ ပုန်းအောင်းခြင်းလည်းမရှိ။ ပုန်းနေခြင်းလည်းမရှိ။ ရှောင်နေခြင်းလည်းမရှိ။ စင်္ကြံလျှောက်နေခြင်းမျှသာဖြစ်ပါသည်။ သို့သော် ရှာမတွေ့ ကိုယ်ပျောက်နေ၏။ ဤလည်း အံ့ဖွယ်တစ်ရပ်ဖြစ်၏။

ထိုအချိန်ကာလတွင် ဆရာတော်ကြီးသည် ဈာန်အဘိညာဉ်ရပုဂ္ဂိုလ်ဖြစ်ကြောင်း အဝေးအနီး ကျော်ကြားလျက်ရှိပါသည်။ ဆရာတော်ကြီး နေသောကျောင်းနှင့် စစ်ကိုင်းကောင်းမှုတော် စေတီကြီးမှာ ၇ မိုင်လောက်ဝေးသည်ဟုဆိုပါသည်။ ထိုခရီးကို ဆရာတော်ကြီးသည် ကောင်းကင်ခရီးဖြင့် ဈာန်ပျံကာ ဘုရားဖူးကြွလေ့ရှိကြောင်း ဖူးမြော်တွေ့ရှိရသူ အများအပြားရှိပါသည်။ နေ့လယ်အချိန်လောက်တွင် (၁)ချက်တီးနှင့် (၂)ချက်တီး ကြားလောက်တွင်လည်း ဘုရားဖူးကြွလေ့ရှိကြောင်း၊ ၎င်းအပြင် ညဥ့်ဦးယံအခါတွင် ည ၇ နာရီလောက်နှင့် ၈ နာရီလောက်ကြားတွင်လည်း ဆရာတော်သည် ဘုရားဖူးကြွလေ့ရှိကြောင်း သိရှိရပါသည်။ စောင့်မျှော် ဖူးနေသူများလည်းရှိပါသည်။ ထိုအခါ ဆရာတော်သည် ဒုကုဋ်သင်္ကန်းကို ပခုံးထက်တင်ကာ ကောင်းကင်ခရီးဖြင့် ကြွလေ့ရှိကြောင်း သိရှိရပါသည်။

ဆရာတော်ကြီး သက်တော် ၈၀-၉၀ အရွယ်သို့ ရောက်သောအခါ ကောင်းမှုတော် စေတီတော်ကြီးသို့ ဘုရားဖူးခရီးကို ဆက်လက်ကြွတော်မူခဲ့ပါသည်။ ထိုအခါမှာ ရုပ်ပွား နာမ်ပွားများဖြင့် ဈာန်ခရီး သွားလေ့ရှိကြောင်းသိရပါသည်။ ထိုအချိန်အခါက ကောင်းစွာ မထနိုင်။ မထိုင်နိုင်၊ ဖြစ်ချိန်ဖြစ်ပါသည်။ အိပ်ရာထဲ လဲလျောင်းနေသောအချိန်မျှပင်လျှင် ကောင်းမှုတော် စေတီတော်ကြီးရှိသို့ ဘုရားဖူး ကြွလေ့ရှိကြောင်း သိရပါသည်။

ငယ်စဉ်အခါကတည်းက ဆရာတော်ကြီးနှင့် ပတ်သက်၍ အံ့ဖွယ်ဖြစ်ရပ်ဆန်းများ ရှိခဲ့ပါသေးသည်။ ညနေပိုင်း ကာလများတွင် ဆရာတော်ကြီးက ကျောင်းအတွင်း၌ စင်္ကြံလျှောက်လေ့ရှိပါသည်။ ထိုအခါများတွင် မြေပြင်မှလွတ်လျက်ရှိကြောင်းသိရှိရပါသည်။ ထိုအချိန်ကာလများတွင် ညအခါကာလများ၌ ကိုယ်ရောင်ကိုယ်ဝါများထွက်ကာ တစ်ကျောင်းလုံး လင်းထိန်လျက်ရှိကြောင်း မျက်မြင်ပုဂ္ဂိုလ်များက ပြောဆိုကြပါသည်။ ထိုစဉ်က ဆရာတော်ကြီးသည် ကျောင်းတိုက်အတွင်း၌ တစ်ပါးတည်း သီတင်းသုံးလျက်ရှိနေပါသည်။

ဂျပန်ခေတ်ကာလများအတွင်းမှာလည်း အံ့ဖွယ်ဖြစ်ရပ်ဆန်းများမှာ ကြားနာနေရဆဲ ဖြစ်ပါသည်။ ဂျပန်စစ်သားများ ရောက်ရှိလာကာ ဆရာတော်ကြီးအား ဖမ်းဆီးဖို့ လိုက်ရှာသော်လည်း မတွေ့ကြကြောင်း ယခုတိုင် ပြောဆိုလေ့ရှိ ကြပါသည်။

ဆရာတော်ကြီးသည် ကုန်းသတ္တဝါများ၏အသား လုံးဝစားတော်မမူပါ။ ရှောင်ကြဉ်တော်မူပါသည်။ ဆရာတော်ကြီးသည် မန်ကျည်းမှည့်ချက်များကိုလည်း ဘုဉ်းပေးလေ့ရှိ၏။ ပိုးဇာရွက်ဟင်းချိုကိုလည်း သောက်သုံးလေ့ရှိ၏။ ပျဉ်တော်သိမ်ရွက်ဟင်းချိုကိုလည်း ဘုဉ်းပေးလေ့ရှိ၏။ ဤမျှ ခြိုးခြံတော်မူ၏။

အဖန်ရည်ကိုကား သောက်သုံးလေ့ရှိ၏။ လက်ဖက်ခြောက်ကို အသုံးပြုလေ့



မရှိ။ မြင်းခွါရွက်များ၊ စကားပန်းများ စသည့်အားဖြင့် ရရာသစ်ရွက်များဖြင့်သာ သောက်သုံး လေ့ရှိပါသည်။ နေ့လယ်အချိန်များတွင်လည်းကောင်း၊ ညနေစောင်းကာလ ညချမ်းကာလများတွင်လည်းကောင်း စတုမဓု စသည်များကို ဘုဉ်းပေးလေ့ မရှိကြောင်း သိရှိရပါသည်။

ယခုတိုင် ပြောစမှတ်ပြုသော အချက်တစ်ချက်မှာ ဆရာတော်ကြီး၏ နောက်ဆုံးခရီးဖြစ်ပါသည်။ ဆရာတော်ကြီးသည် သက်တော် ၈၀ လောက် အရွယ်တော်သို့ ရောက်သောအခါ မျက်လုံးအင်အား အလွန်နည်းလာပါသည်။ မျက်စိအတွင်းမှာ တိမ်သလ္လာစွဲကပ်လာခဲ့ပါသည်။ ထိုအခါ တပည့်များ၏ လျှောက်ထားတောင်းပန်ချက်အရ ဆေးရုံတွင် မျက်စိခွဲစိပ်ကုသရန် စီမံကြပါသည်။ ထိုအခါ ဆေးရုံထုံးစံအတိုင်းပင် ခွဲစိပ်ခန်းဝတ်စုံကို ပြောင်းလဲဝတ်ဆင်ရန် စီမံကြပါတော့သည်။ ထိုအခါ အရဟတ္တ မဂ်ဖိုလ်တံခွန်ဖြစ်တော်မူသော ဤသင်္ကန်းတော်ကို စွန့်လွှတ်ပြီးလျှင် လူဝတ်စုံနှင့် ဝတ်မှသာ မျက်စိကို ခွဲစိပ်နိုင်သည်ဟု သိရှိရသဖြင့် သင်္ကန်းကို မစွန့်နိုင် မျက်လုံးကိုသာ စွန့်နိုင်သည်ဟု ခွဲစိပ်ခန်းမှ ဆင်းခဲ့ပါသည်။ ဤလည်း အံ့ဖွယ်တစ်ရပ်ဖြစ်ခဲ့ပါသည်။

ဆရာတော်ကြီး၏ သည်းခံမှုတရားနှင့်ပတ်သက်၍ကား ယခုထက်တိုင် ပြောမဆုံးပေါင် တောသုံးတောင် ဇာတ်လမ်းတစ်ပုဒ်ရှိပါ၏။ ဤသို့ဖြစ်ပါသည်။

ဆရာတော်ကြီး၏ တင်ပါးဆုံတွင် အနာကြီးတစ်ခုဖြစ်နေ၏။ ထိုအချက်ကို လူများ မသိပါ။ ခန္ဓာဝန်ချသောအခါမှ သိရှိရပါသည်။ ထိုအခါ ဂွမ်းဗိုင်းတောင့်ကို အနာပေါက်ထဲထိုးသွင်းရာ ၇ လိပ်တိတိ ထိုးသွင်းရကြောင်း အံ့ဖွယ်သိရှိရပါသည်။ အနာကြီးမှာ ထိုမျှကြီးသော အခေါင်းပေါက်ကြီးဖြစ်နေကြောင်း သိရှိရပါသည်။

ယခုထက်တိုင် ပြောမဆုံးနိုင်သော အဖြစ်အပျက်တစ်ခုကို ကျွန်ုပ်တို့၏ ဓမ္မမိတ်ဆွေကြီးတစ်ဦးထံမှ ကြားသိရသည်မှာ အလွန်ကြည်ညိုဖွယ်ရာဖြစ်ပါသည်။ အဖြစ်မှာ ဤသို့ဖြစ်ပါသည်။

လွန်ခဲ့သော ၂၅ နှစ်ခန့်လောက်က စာရေးသူတို့နေအိမ်သို့ ဓမ္မမိတ်ဆွေတစ်ယောက်၊ ရောက်လာကာ ထူးဆန်းသော ဓာတ်ပုံတစ်ပုံကို ပူဇော်ဖို့ လာရောက်ပေးခဲ့ပါသည်။ ဓာတ်ပုံမှာ ဘုန်းတော်ကြီးတစ်ပါးနံဘေးမှ ရိုက်ထားသော ကိုယ်တစ်ခြမ်းပုံသာဖြစ်၍ ဓာတ်ပုံအကြောင်းသာမသိရလျှင် ဘာမှထူးဆန်းသောပုံဟုမဆိုနိုင်ပါ။ ဓမ္မမိတ်ဆွေက ၎င်းဓာတ်ပုံသည် ကောင်းကင်မှာ ဈာန်ဖြင့်ကြွနေသော ဘုန်းကြီးတစ်ပါးကို လေယာဉ်မောင်း(ပိုင်းလော့)တစ်ယောက်က လေယာဉ်နံဘေးမှန်ပေါက်မှ ရုတ်တရက်ဖူးတွေ့လိုက်ရာတွင် ခရီးဆောင်ကင်မရာဖြင့် ရိုက်ကူးလိုက်သည်ဟုဆိုပါသည်။ ၎င်းဓာတ်ပုံပါ ဘုန်းတော်ကြီးသည် မည်သည့်အရပ်ဒေသမှဟု မပြောပြနိုင်သလို ကာလအတန်ကြာအထိ မသိရှိခဲ့ကြပါ။ ထိုဓာတ်ပုံမှာ နိုင်ငံအနှံ့ အကျော်ဒေးယျဖြစ်ခဲ့ပါသည်။ ထိုထူးဆန်းသောဓာတ်ပုံပါ ဈာန်ပျံသည့် ဘုန်းတော်ကြီးသည် ကန်တွင်းကျောင်း ဆရာတော်ကြီးဖြစ်မှန်း နှစ်အတန်ကြာမှသိရှိခဲ့ကြပါသည်။ ကန်တွင်းကျောင်းဆရာတော်ကြီးသည် မျက်မှောက်ခေတ်ဈာန်ပျံနိုင်သော ရဟန်းတော်များတွင် တစ်ပါးအပါအဝင်ဖြစ်ပါသည်။

(ကျမ်းကိုး။ ဖိုးခေါင်းသား ထူးထူးခြားခြား ကန်တွင်းကျောင်း ဆရာတော်ဘုရား။ ဂမ္ဘီရ ၂၀၀၃ ခု၊ ဇူလိုင်လ၊ စာ - ၂၆ - ၂၇ ကို ကြည့်ပါ။ )

ဇမ္ဗူမှာတစ်ဆူဟု ကျော်ကြားတော်မူသည့် ရဟန္တာအရှင်မြတ်

# လေဘူ ဆရာတော်ဘုရားကြီး

အေဒီ ၁၈၉၆ - ၁၉၇၇ ( ၁၂၅၇ - ၁၃၃၉ )



တော်ဝင်မြို့ စာအုပ်တိုက်



ရွှေဘိုခရိုင် ခင်ဦးမြို့သို့ရောက်စဉ်အခါက ကျွန်တော် အရေးတကြီး စပ်စုလိုသော အချက်မှာ ခင်ဦးမြို့နယ် အင်ကြင်းပင် ရွာပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဝေဘူဆရာတော်ကြီး၏ ဖွားရာဇာတိ ဖြစ်သောကြောင့်တစ်ကြောင်း။ ရဟန္တာဟူ၍ အကျော်တစောရှိလှသော ဝေဘူဆရာတော်ကြီးသည် သက်တော် ၈၂ နှစ် ရှိသောအခါ မိမိ၏ဇာတိရွာဖြစ်သော အင်ကြင်းပင် ကမ္ဘဋ္ဌာန်းကျောင်းသို့ပင် ပြန်လည်ကြွသွားပြီးနောက် ခန္ဓာဝန်လက်စသိမ်း၍ တစ်ဘဝငြိမ်းတော်မူကြောင်း သိရှိထားနှင့်သော ကြောင့်ဖြစ်ပါသည်။

## မွေးဖွားရာ ဇာတိ

၁၈၉၆ ဝေဘူဆရာတော်ကြီးကို အေဒီ ၁၈၉၆ ခု၊ ဖေဖော်ဝါရီလ ၁၇ ရက်၊ တနင်္လာနေ့ (၁၂၅၇ ခုနှစ်၊ တပေါင်းလဆန်း ၆ ရက်) တနင်္လာနေ့တွင် ရွှေဘိုခရိုင် ခင်ဦးမြို့နယ်၊ မဒေါင်းလှ ဘူတာအနီး အင်ကြင်းပင် ကျေးရွာတွင် ဖွားမြင်တော်မူကြောင်း မိဘ များမှာ တောင်သူလယ်သမားများဖြစ်ကြသော ဦးလူဖေ၊ ဒေါ်ကြင်နုတို့ဖြစ်ကြောင်း သိရပါသည်။

## တနင်္လာသား မောင်စပ်

ဝေဘူဆရာတော်ကြီးမှာ တနင်္လာသား ဖြစ်သော်လည်း မောင်စပ်ဟူ၍ ခေါ်ဆိုကြကြောင်း သိရပါသည်။ ခမည်းတော်ကြီးမှာ တောင်သူလယ်သမားဖြစ်သော် လည်း အမှန်စင်စစ်အားဖြင့် မင်းသွေးမင်းမျိုးဖြစ်ကြောင်း၊ ခင်ခင်ဟုခေါ်သည့် အိမ်ရှေ့စံမိဖုရားငယ်တစ်ဦး၏ သားဖြစ်ကြောင်း စုံစမ်းသိရှိရပါသည်။

ဝေဘူဆရာတော် ငယ်စဉ်က မောင်စပ်ဟူသော ကလေးသူငယ်ဘဝတွင် ဘာသာရေးကို ကိုင်းရှိုင်း၏။ သီတင်းကျွတ်တိုင်း အင်ကြင်းပင်ကျောင်းတိုက်တွင် ကျောင်းသားလေးများကို မုန့်ဝေ လေ့ရှိသည်။ မောင်စပ်သည် မိမိရလာသော မုန့်များ ကိုမစားဘဲ လမ်း၌လည်းကောင်း၊ သစ်ပင်များ၌လည်းကောင်း ကြိုးဖြင့်ချည်၍ စတု ဒိသာကျွေးလေ့ရှိသည်။

မောင်စပ်သည် မိဘများက စာခြောက်ခိုင်း၍သာသွားရသည်။ စပါးစားနေ သည့် စာကလေးများကိုသနားသဖြင့် မခြောက်လှန့်လို မင်းတို့လည်းစားကြ ငါလည်း ပြန်မယ်ဟုဆိုကာ အိမ်သို့ပြန်လာခဲ့သည်။ ဖခင်ကြီးက မင်းဘာဖြစ်လို့ ပြန်လာတာ လဲဟုမေးရာ သူတို့ဆာလို့ စားကြတာပဲ မခြောက်ထုတ်ချင်ပါဘူးဟု ဖြေသောဟူ၏ဟု သိရပါသည်။

၁၉၀၄ ၉ နှစ်သားတွင် သာမဏေပြု၏။ ထိုနှစ်သည် အေဒီ ၁၉၀၄ ခု (၁၂၆၆ )ခု ဖြစ်၏။

၁၉၁၅ သက်တော် ၂၀ တွင် ရဟန်းပြု၏။ ထိုနှစ်သည် အေဒီ ၁၉၁၅ ခု (၁၂၇၇ )ခုဖြစ်၏။

၁၉၁၉ မစိုးရိမ်ဆရာတော်ထံတွင်စာသင်ခဲ့၏။ ထိုနှစ်သည် အေဒီ ၁၉၁၉ ခု (၁၂၈၀)ခု ဖြစ်၏။ ဤအထိ ထူးခြားမှု မပြသေးပါ။

၁၉၂၃ သက်တော် ၂၅ နှစ်တွင်ကား ထူးခြားမှု ပြတော့၏။ အင်ကြင်းပင် ကျောင်း၌ပင် နေစဉ် ဝိသုဒ္ဓိမဂ်တက်အပြီး တောထွက်တော်မူ၏။ ထိုနှစ်သည် အေဒီ ၁၉၂၃ ခု (၁၂၈၅)ခု ဖြစ်၏။



အသက် ၉ နှစ် အရွယ်တွင် ရှင်သာမဏေဝတ်ပေးပြီးနောက် အသက် ၂၀ ပြည့်သည့်အခါ ရဟန်းပြုတော်မူကြောင်း၊ ထိုစဉ်က အင်ကြင်းပင်ရွာရှိ အင်ကြင်းကျောင်းတွင် သီတင်းသုံးနေထိုင်တော်မူခဲ့ကြောင်း၊ နောင်သောအခါ ထိုအင်ကြင်းပင်ကျောင်းမှာပင် စာပေသင်ကြားရင်း ဝိသုဒ္ဓိမဂ်တက်ပြီးသောအခါ တောထွက်တော်မူကြောင်းသိရှိရပါသည်။

## ဘုန်းကြီးကျောင်းသား သမ္မတကြီး စပ်ရွှေသိုက်

ဝေဘူဆရာတော်ကြီးသည် ရဟန္တာဟု ကျော်စောတော်မူသော ကာလကဖြစ်ပါသည်။ ထိုစဉ်က မြန်မာပြည်၏ ပထမဦးဆုံးသော သမ္မတကြီးဖြစ်လာသူ စပ်ရွှေသိုက်သည် ဝေဘူဆရာတော်ကြီးထံ တပည့်ခံ၍ ဘုန်းကြီးကျောင်းသားလုပ်ခဲ့ကြောင်းသိရပါသည်။

> ကျွန်တော်ငယ်စဉ်က ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီးနှင့် ကြုံခဲ့ရသည်ဖြစ်ရာ ထိုစဉ်က ဝေဘူဆရာတော်ကြီးသည် ဈာန်အဘိညာဉ်ရ ရဟန္တာအဖြစ် ဟိုးဟိုးကျော်လျက်ရှိသည်ဖြစ်ရာ ရန်ကုန်တွင် ဝေဘူဆရာတော်ကြီး ဆွမ်းခံကြွသောအခါ နောက်လိုက်နောက်ပါတပည့်များထဲတွင် မြန်မာပြည်၏ ပထမဆုံးသမ္မတကြီးဖြစ်ခဲ့သော စပ်ရွှေသိုက်ကိုယ်တိုင်ပင်လျှင် ဘုန်းကြီးကျောင်းသားလုပ်ကာ သပိတ်ပိုက်၍ နောက်တော်ပါးမှ လိုက်ခဲ့ဖူးလေသည်။
>
> (ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၆)

## ဆဋ္ဌသင်္ဂါယနာ

ထိုစဉ်က ဝေဘူဆရာတော်ကြီးသည် ယခု တက္ကသိုလ် ဓမ္မာရုံကြီးတွင် နေ့စဉ်ရက်ဆက် တရားဟောလျက်ရှိရာ ကျားဂူဆရာတော်၊ တွံတေးဆရာတော်တို့သည် လာရောက်ဖူးမြော်ကန်တော့ကြပေသည်။ ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီးသို့ ကြွရောက်ချီးမြှင့်ပါမည့်အကြောင်း လျှောက်ထားကြသည်ဟုဆိုပါသည်။ ဝေဘူဆရာတော်ကြီးကို လှူဖွယ်ပစ္စည်းများ အလျှံအပယ် လှူဒါန်းကြသည်ဖြစ်ရာ ဆရာတော်ကြီးသည် သံဃာ့ပစ္စည်းများဖြစ်သည်ဆိုကာ သံဃာတော်များကို ပြန်လည်လှူဒါန်းခဲ့လေသည်။

## မိုးညှင်းဆရာတော်နှင့် မောင်ဝေဘူရဲ့ မီးဖိုချောင်

ထိုအချိန်တွင် မိုးညှင်းသမ္ဗုဒ္ဓေစေတီတော်ကြီးကို ဦးဆောင်တည်ထားတော်မူသော မိုးညှင်းဆရာတော်ကြီးထံ သွားရောက်၍ လှူဖွယ်ဝတ္ထုများကို လှူဒါန်းသောအခါ မိုးညှင်းဆရာတော်ကြီး ကိုယ်တော်တိုင်က နှုတ်မှဖွင့်ဟ၍ ငါတို့များ တန်ခိုးကြီးလှပြီလို့ ကိုယ့်ကိုယ်ကိုယ်ထင်နေကြတာ၊ တကယ့်တကယ်တော့ မောင်ဝေဘူရဲ့ မီးဖိုချောင်လောက်ပဲ ရှိတာကိုးဟု ဖွင့်ဟမိန့်ကြား ချီးမြောက်တော်မူကြောင်း ပြန်လည်ကြားသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၇)

## မစိုးရိမ်ဆရာတော်၊ ညောင်ရမ်းဆရာတော်

ထိုစဉ်က ဆဋ္ဌသင်္ဂါယနာပွဲတော်ကြီး ကျင်းပလျက်ရှိရာ ဝေဘူဆရာတော်ကြီးလည်း ကြွရောက်ချီးမြှင့်တော်မူပါသည်။ ပထမနေ့တွင်ကား ဝေဘူဆရာတော်ကြီးကို အထူး



ဧည့်သည်တော်များနေရာတွင် ဖူးမြော်ခဲ့ရကြောင်း သို့သော်လည်း ဒုတိယမြောက်နေ့တွင် မစိုးရိမ်ဆရာတော်ကြီးနှင့်အတူ သီတင်းသုံးလျက်ရှိကြောင်း၊ အလယ်ထပ်တွင် ဖူးတွေ့ခဲ့ရကြောင်း။ သို့သော်လည်း တတိယမြောက်နေ့တွင်ကား ကျေးဇူးရှင်ညောင်ရမ်းဆရာတော်ကြီးနှင့်အတူ ပူဇော်ခြင်းခံရကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၇ )

## ဝေဘူဆရာတော်ဟဲ့ ဖူးလိုက်ကြ

ဝေဘူဆရာတော်ကြီးကို လူအပေါင်းတို့က များစွာကြည်ညိုကြသည်ကို သိရှိနှင့်ပြီးဖြစ်သောကြောင့် ညောင်ရမ်းဆရာတော်ကြီးသည် ဝေဘူဆရာတော်ကြီးအား မဟာပါသာဏ လိုဏ်ဂူကြီး၏ လိုဏ်ပေါက်ဝအထိ လိုက်ပို့ပြီးလျှင် ကြိတ်ကြိတ် တိုးဝှေ့နေကြသော လူအပေါင်းတို့အား 'ဟဲ့ ဝေဘူဆရာတော် ဟဲ့၊ ဖူးလိုက်ကြ ဖူးလိုက်ကြ'ဟု ပရိသတ်များကို မိန့်တော်မူခဲ့လေသည်။ ဤရွှေ့ဤမျှပင် ဝေဘူဆရာတော်ကြီး၏ ဂုဏ်သတင်းသည် ဘဝဂ်အထိ ညီးညီးညံလျက်ရှိပါသည်။

## တစ်ခုသော မေးခွန်း

ဝေဘူဆရာတော်သည် ခန္ဓာဝန်မစွန့်မီ သုံးရက်လောက် အတောအတွင်း သုံးကြိမ်တိတိ မေးခွန်းတစ်ခုမှာ 'ဟဲ့ မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီး ပရိနိဗ္ဗာန်ပြုတော်မူတဲ့နေရာဟာ ဘယ်နေရာလဲ'ဟူ၍လည်းကောင်း၊ 'ဘုရားရှင်ကိုယ်တော်မြတ်ကြီး ဖွားမြင်တော်မူသည့်နေရာဟာ ဘယ်နေရာလဲ'ဟူ၍လည်းကောင်း သုံးရက်ဆက်၍ မေးတော်မူကြောင်း သုံးကြိမ်ဆက်၍ မေးတော်မူကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၈ )

**ရဟန္တာဟု ကျော်စောတော်မူသော ဝေဘူဆရာတော်ကြီးနှင့်စပ်လျဉ်း၍ ဇမ္ဗူမှာ တစ်ဆူပဲရှိတယ်ဟူ၍ ရဟန္တာဟုကျော်စောတော်မူသော စွန်းလွန်း ဆရာတော်ကြီးကိုယ်တော်တိုင်က ချီးမြှင့်မြှောက်စားတော်မူကြောင်း သိရှိရပါသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၈)

၁၉၇၇ ထို့နေ့သည် ၁၃၃၉ ခု၊ ဝါဆိုလဆန်း ၁၁ ရက်၊ ( ၁၉၇၇ ခု၊ ဇွန်လ ၂၆ ရက်၊) တနင်္ဂနွေနေ့ ည ၇ နာရီ၊ မိနစ် ၃၀ အချိန် ဖြစ်ပါသည်။ ထိုအချိန်တွင် ဆရာတော်ကြီးသည် သက်တော် ၈၂ နှစ်၊ ဝါတော် ၆၂ ဝါ ရှိပြီးဖြစ်ကြောင်း ပြန်လည်တသ ပူဇော်ကန်တော့လိုက်ပါသည်။

(ကျမ်းကိုး၊ မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊ အတွဲ (၄) အမှတ် (၁၈)၊ ၁-၈-၂၀၀၅။)

## ဝေဘူဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကထာ ဘဝခရီး

၁၉၀၅ အေဒီ ၁၉၀၅ ခု (၁၂၆၆ ခုနှစ်) ၉ နှစ်သားအရွယ်တွင် ရှင်သာမဏေဘဝသို့ရောက်ခဲ့ပါသည်။ အင်ကြင်းပင်ကျောင်းငယ်ဆရာ ဦးသုမနထံဝယ် ပညာသင်ယူခဲ့ကြောင်း သိရပါသည်။



၁၉၁၀ သက်တော် ၂၀ ရောက်သောအခါ ရဟန်းပြုခဲ့ပါသည်။ ထိုနှစ်သည် အေဒီ ၁၉၁၀ (၁၂၇၂ ခု) ဖြစ်၏။

၁၉၁၉-၂၀ အေဒီ ၁၉၁၉ - ၂၀ ခု (၁၂၈၀ - ၈၁ ခုနှစ်)တို့တွင် မန္တလေးမြို့ အနောက်ပြင် မစိုးရိမ်တိုက်အုပ်ဆရာတော် ဘဒ္ဒန္တသူရိယဝံသထံတော်၌ ပရိယတ္တိ စာပေများ သင်ကြားခဲ့ကြောင်းသိရပါသည်။

ရင်းအပြင် ရွှေဘိုမြို့ မူလ ပုသိမ်ဆရာတော်ကြီးထံတွင် နည်းနာများ ခံယူခဲ့ကြောင်း သိရှိရပါသည်။

၁၉၂၃ ထိုနှစ်သည် အေဒီ ၁၉၂၃ ခု(၁၂၈၅ ခု)ဖြစ်၏။ ထိုနှစ်ကား ပုသိမ်တောရမှာ ပင် ဝါဆိုခဲ့ကြောင်းသိရှိရပါသည်။

## စုတင် ၁၃ ပါးဆောင်

ဆရာတော်ကြီးသည် စုတင် ၁၃ ပါးလုံးကို ဆောင်တော်မူသော ဆရာတော်ကြီးဖြစ်ပါသည်။ ကမ္မဋ္ဌာန်း အလုပ်ခွင်အတွက် တွန်းအားအကောင်းဆုံးဖြစ်သော အိပ်ခြင်းကို မဆိုထားဘိ ကျောဆန့်ရုံမျှပင် မပြုသောအကျင့် နိသဇ္ဇိတင် ဓုတင်ကို အထူးရွေ့တန်းတင်၍ ဆောင်တော်မူခဲ့သော ဆရာတော်ကြီးဖြစ်၏။ ထို ပုသိမ်ဆရာတော်ကြီးသည် မိမိထံ နည်းခံသော တပည့်များကိုလည်း ထိုနည်းအတိုင်း အချိန်ပြည့် အားထုတ်ရန် ဩဝါဒပေးလေ့ရှိသည်ဟု သိရပါသည်။

၁၉၄၇ အေဒီ ၁၉၄၇ ခု (၁၃၀၉ ခုနှစ်)သို့ ရောက်သောအခါ ဝေဘူဆရာတော်သည် ကျော်ကြားနေပြီဖြစ်ပါသည်။

၁၉၅၁ အေဒီ ၁၉၅၁ ခု (၁၃၁၂ ခု) လောက်တွင်ကား ရဟန္တာဟူ၍ သိသိသာသာကြီး ပြောဆိုနေကြပါသည်။ ထိုစဉ်က ဝေဘူဆရာတော်ကြီးသည် ကျောက်ဆည်ဝေဘူ တောရ၌လည်းသီတင်းသုံးတော်မူ၏။ ရွှေဘို၌လည်း သီတင်းသုံးတော်မူ၏။ အင်ကြင်း ပင်ရွာ၌လည်း သီတင်းသုံးတော်မူ၏။ ဆရာတော်ကြီး၏ ဩဝါဒများမှာလည်း အရိုးထိက အဆန်းကလေးများဖြစ်၏။

တစ်ချိန်က ဆရာတော်ကြီးအား ညစဉ် ဝတ်ပြုနေကျ ယောဂီဒကာများကို မိန့်ကြားတော်မူသည်မှာ - ဒကာကြီးတို့ ညက တရားအလုပ် တော်တော်လုပ်ကြတယ်ထင်ပါရဲ့ (လုပ်ရင်း ငိုက်ရင်းပါပဲဘုရား) ငိုက်ပြီးတော့ ထပြီး လမ်းမလျှောက်ဘူးလား (သိမ်အပြင်ထွက်ပြီး ပတ်ပတ်လည် လမ်းလျှောက်ပါတယ်ဘုရား) နောက်ပြီးတော့ ကောဗျာ (အိပ်ချင်ပြေပြီး သိမ်ထဲပြန်ဝင်တော့ ငိုက်ပြန်တာပါပဲဘုရား) တစ်သံသရာလုံး အိပ်လာငိုက်လာတာ အခုအထိ မကျေနပ်သေးဘူးလားဗျာ၊ (သူညတန်းပါ ဘုရား) သူညရေးတတ်ရင်ပဲ လုံးဝမရေးတတ်သူတို့ထက်သာတာပေါ့၊ (မှန်ပါ့ဘုရား) အေး တရားအလုပ်ဆိုတာ တို့များငယ်စဉ်က စာသင်သလိုပါပဲ၊ (အမိန့်ရှိပါဘုရား) စိတ်ပါလို့ဖြစ်ဖြစ်၊ မပါလို့ဖြစ်ဖြစ် ကျောင်းသွားပြီး စာသင်နေရတာပဲမဟုတ်လား၊ (မှန်ပါ့ဘုရား) ပျင်းလို့ပဲဖြစ်ဖြစ် ညည်းလို့ပဲဖြစ်ဖြစ် ပထမအရွယ် လုပ်ရ ယူရ သင်ရမယ့် ပညာကို ရှာရတာပဲ မဟုတ်လား၊ (တင်ပါ့ဘုရား) ဒါပေမဲ့ ကြီးပြင်းလာတဲ့အခါ သူ့အဆင့်နဲ့သူ ပညာတတ်တာပဲ မဟုတ်လား၊ တရားအားထုတ်ရာမှာလည်း ဒီသဘောပါပဲ၊



ပျင်းရင်လည်း ကြိုးစားလုပ်၊ ငိုက်ရင်လည်း ကြိုးစားလုပ်ကြဗျာ၊ စာသင်နေသော ပုဂ္ဂိုလ်သည် တစ်နေ့တွင် စာတတ်မြောက်လာသကဲ့သို့ တရားအားထုတ်နေသူသည် တစ်နေ့တရားတွေ့မည်ဟု ဆိုလိုရင်းဖြစ်ပါသည်။

(ကျမ်းကိုး။ ထိုအချက်တို့ကို မောင်မောင် (ယမုံနာ) ဓမ္မိရမဂ္ဂဇင်း ၂၀၀၄၊ ဩဂုတ်လ စာ၊ ၄၀၊ ၄၁တို့မှ ရပါသည်။)

## ညောင်လွန့်ဆရာတော်ကြီးနှင့် တူသည်ဟု ပြောကြ

ဝေဘူဆရာတော်ဟု ကျော်ကြားလာမည့် ဦးကုမာရသည် ပုသိမ်တောရမှ ထွက်ခွာလာခဲ့ပြီး မင်းဘူး၊ ရွှေစက်တော်အထိ တောတောင်အနှံ့ ကြွရောက်တော်မူသည်။ ထို့ပြင် ညောင်လွန့်တောရ၌လည်း တရားရှာမှီးခဲ့ဖူးသည်။ ဝေဘူဆရာတော်သည် မှီလျှောင်း၍ ကျိန်းစက်မှုကို နာရီအနည်းငယ်သာပြုပြီး ကမ္မဋ္ဌာန်းတရားကို စွဲစွဲမြဲမြဲ အားထုတ်ခြင်း၊ အာနာပါန ကမ္မဋ္ဌာန်း စီးဖြန်းခြင်းတို့သည် ညောင်လွန့်တောရဆရာတော်ကြီးနှင့် တူသည်ဟုဆိုကြပါသည်။ ဝေဘူဆရာတော်ကြီးသည် ညောင်လွန့်တောရ ဆရာတော်ကြီး ဥပနိဿယ ခံယူသည်ဟုသိရှိရပါသည်။ ထို့ပြင် ဝေဘူဆရာတော်ကြီးသည် မူလ ပုသိမ်တောရ ဆရာတော်ကြီး၏ ဥပနိဿယကိုလည်း ခံယူသေးသည်ဟု သိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၇၂ )

## ဝေဘူဆရာတော်ဟု ကျော်စော

ကျောက်ဆည်နယ်သည် မြစ်ငယ်မြစ်နှင့် ဇော်ဂျီမြစ်တို့အကြားတွင်ရှိပြီး ရေလိုသလောက် ရရှိသဖြင့် ဆန်ရေစပါးဖြစ်ထွန်းသည်။ မြို့၏အရှေ့ဘက်ခြမ်းတွင် ကျောက်တောင်၊ ကျောက်ကမ္ဘူများ၊ လှိုဏ်မြောင်များ၊ သစ်ပင်၊ ချုံနွယ်ပိတ်ပင် ပေါင်းများဖြင့် စိမ်းလန်းစိုပြည်သည်။ ဆရာတော်သည် ဝေဘူတောင်ဝှမ်း၊ လှိုဏ်မြောင်များအကြား တရားအားထုတ်တော်မူစဉ် ဦးပျော့အမှူးပြုသော ဒါယကာများနှင့် ကံဆုံခဲ့ရာမှ ဝေဘူဆရာတော်ဟူ၍ ထင်ရှားလာခဲ့သည်။

## ဆရာက တပည့်ကို ဆရာတင်

အင်ကြင်းပင်မှ ငယ်ဆရာဖြစ်သော ဆရာတော်ဦးသုမနက ပရိယတ်တုန်းကတော့ ငါက မင့်ဆရာပဲ၊ ပဋိပတ်မှာတော့ မင်းဟာ ငါ့ဆရာဖြစ်ပြီ မင်းရလာတဲ့ တရားထူးကို ငါ့လည်းပေးပါဟု မိန့်တော်မူပြီး ဆရာတော်၏ ကမ္မဋ္ဌာန်းတရားကို ကျင့်ကြံအားထုတ်တော်မူသည်။

၁၉၂၈ အင်ကြင်းပင် ဆရာတော်သည် တပည့်ထံမှ နိဿယခံယူကာ ကမ္မဋ္ဌာန်းတရား အားထုတ်ရင်း အေဒီ ၁၉၂၈ ခု (၁၂၈၉ ခုနှစ်)တွင် ပျံလွန်တော်မူသည်။ ပျံလွန်တော်မမူမီ တပည့်အားခေါ်၍ ငါ့နေရာ ကျောင်းတွင် ပရိယတ်ကိုလည်း မပျက်အောင်လုပ်ပါ။ ပဋိပတ်အတွက်လည်း ပြန့်ပွားအောင် ငါ့တပည့် ကြိုးစားအားထုတ်ပေတော့ဟု မိန့်တော်မူခဲ့ပေသည်။

## အင်ကြင်းပင် ဆရာတော်



၁၉၂၈ အေဒီ ၁၉၂၈ခု၊ ဖေဖော်ဝါရီလ ၂၆ ရက်၊ တနင်္ဂနွေနေ့ (၁၂၈၉ ခုနှစ်၊ တပေါင်းလဆန်း ၇ ရက်နေ့)တွင် အင်ကြင်းပင်ဆရာတော် ပျံလွန်တော်မူသောအခါ ဝေဘူဆရာတော်က မဟာနာယကအဖြစ် ဆက်ခံတော်မူသည်။

## တစ်နှစ် နှစ်ခါ

၁၉၂၉ အေဒီ၁၉၂၉ ခု (၁၂၉၀ ပြည့်နှစ်)မှစ၍ အင်ကြင်းပင်၌ ၆ လ သီတင်းသုံး၏။ ဝေဘူချောင်၌ ၆ လ သီတင်းသုံး၏။ ထိုအခါမှစ၍ နှစ်နေရာခွဲကာ ၆ လစီ သီတင်းသုံးတော်မူသည်။

## တစ်နှစ် သုံးခါ

၁၉၅၁ ၎င်းနောက် အေဒီ ၁၉၅၁ ခု (၁၃၁၂ ခု) မှ စ၍ ၃ နေရာခွဲလျက် ၄ လစီ သီတင်းသုံးတော်မူခဲ့လေသည်။ ရွှေဘိုအောင်မြေသို့ သီတင်းသုံးကြွပါရန် လျှောက်ထားကြသောကြောင့်ဖြစ်ပါသည်။

## အီတလီဘုန်းတော်ကြီး ဦးလောကနာထ

အီတလီလူမျိုး ဘုန်းတော်ကြီး ဦးလောကနာထသည် ဝေဘူဆရာတော်ကြီးအား ရွှေဘိုအောင်မြေသို့ လာရောက်ဖူးမြော်သည်။ ဦးလောကနာထက ဝေဘူဆရာတော် အရှင်ကုမာရသည် ရဟန္တာဟု ကျော်ကြားနေသည်။ ဟုတ်ပါသလားဟု မေးလျှောက်သည်။ ဝေဘူဆရာတော်က တို့များခရီးသွား ပုဂ္ဂိုလ်ပါဗျာဟုဖြေပြီး လမ်းမှာ ရတနာ ရွှေ ငွေ ကျောက်သံပတ္တမြားတွေတွေ့ရင် ပြောပါ့မလားဟု ဦးလောကနာထကို မေးတော်မူသည်။ ဦးလောကနာထက မပြောပါဘုရားဟု ပြန်ဖြေသည်တွင် ဆရာတော်က အေးဗျာ ဒီလိုပါပဲဟု မိန့်တော်မူသည်။ ထိုအကြောင်းကို အတူပါလာသော စကားပြန်က ဝေဘူဆရာတော်သည် ရဟန္တာဟုဖြေကြောင်း အင်္ဂလိပ်နေ့ရှင်သတင်းစာသို့ သတင်းပို့သည်။

## တက္ကသိုလ်မွှေရုံမှာတုန်းက

ရန်ကုန်မြို့ တက္ကသိုလ်မွှေရုံ၌ နေ့စဉ်ရက်ဆက် တရားဟောကြားတော်မူနေစဉ် လက်ပံတန်းမှ ဆရာတော်ကြီးတစ်ပါးက ဝေဘူဆရာတော်အား ရဟန်းကိစ္စပြီးပါပြီလားဘုရားဟု မေးလျှောက်နေသည်ကို တပည့်တော်ခရီးသွားဆဲပါ ဘုရားဟု ဖြေကြားတော်မူသည်။

## သစ်ပင်ရှိရင် ဆွမ်းရှိတာပဲ

၁၉၃၅ ၁၃၃၇ ခု (၁၉၃၅) ခုနှစ်တွင် ဂျပန်ပြည်မှ ဘုန်းတော်ကြီးများ ဝေဘူချောင်သို့ ကြွလာကြသည်။ အရှင်ဘုရား ဈာန်ပျံကြောင်းကြားရတာ မှန်ပါသလားဘုရားဟု မေးလျှောက်ကြရာ ဘုရားရှင်လက်ထက်တော်က ရတာမျိုးတွေကိုရတယ် ပြောတာ တူပါတယ်ဟု ပြန်လည်မိန့်ကြားတော်မူသည်။



ဦးကုဏ္ဍလသည် ဘာမဆို ဆရာတော်အားလျှောက်ရဲသော စာချ ဦးပဥ္စင်းတစ်ပါးဖြစ်သည်။ ဆရာတော်ထံ၌ ဆရာတော်ကျေနပ်လောက်အောင် တရားအားထုတ်ပြီး အိန္ဒိယ၊ သီဟိုဠ်သို့ ဘုရားဖူးသွားချင်ကြောင်း လျှောက်ထားသည်။ ဤတွင် ဆရာတော်က ဦးပဥ္စင်း လူများများသိစေချင်ရင် မကြော်ငြာနဲ့ ဒီဟာကိုသာ (ထွက်လေ၊ ဝင်လေ သိမှတ်မှုကိုသာ)များများလုပ်၊ ပုန်းတောင်နေရဦးမယ်ဘုရား၊ တရားတော်ဟာ အကာလိကောဗျာ၊ ဘုရားလက်ထက်က ဘာမဆို အကုန်မဖြစ်နိုင်တာ မရှိဘူး။ တို့တောထဲမှာ နေတုန်းက စမ်းကြည့်တယ်ဗျာ၊ သင်္ကန်းရုံ၊ သပိတ်လွယ်ပြီး ဆွမ်းခံ ထွက်တယ်။ မြို့ထဲရွာထဲမသွားဘူး၊ သစ်ပင်အောက်လျှောက်ရပ်တာပဲ။ သစ်ပင်ရှိရင် ဆွမ်းရှိတယ်ဗျာဟု မိန့်တော်မူသည်။

ဆရာတော်သည် ဦးကုဏ္ဍလအား အကာလိကောဂုဏ်တော်ကို ဟောပြောပြီးနောက် ကတ်သီးကတ်သတ်မေးခွန်း အဖြေများနှင့်စပ်၍ ငါ အသက်ရှင်တုန်း ဘယ်သူ့ကိုမှ မပြောရဟုပင် နှုတ်ပိတ်တော်မူထားသည်ဟု သိရပါသည်။

(ကျမ်းကိုး။ တင်အောင်သွင်၊ ကျေးဇူးတော်ရှင် ဝေဘူဆရာတော်ဘုရားကြီး ဂန္ထိရ မဂ္ဂဇင်း ၂၀၀၃ ခု၊ အောက်တိုဘာလ၊ စာ ၊ ၅၁၊ ၅၂။)

**ဝေဘူဆရာတော်ကြီးသည် ဒုတိယကမ္ဘာစစ်ကြီး မတိုင်မီ ကတည်းကပင် သာသနာတော်၏ အကျိုးငှာ ကမ္မဋ္ဌာန်းဝိဝေကို ပွင့်လင်းစွာသုံးစွဲခဲ့သည်ဟု သိရှိရပါသည်။ နံနက်စောစော အိပ်ရာထ၊ လုပ်ငန်းခွင်ဝင်ကြသော မိလ္လာသိမ်းကုလားများ၊ နွားနို့ရောင်းကုလားများက ဒီတောင်ပေါ်မှာ မြန်မာဘုန်းကြီး လူစွမ်းကောင်းရှိတယ်ဟု ပြောကြ၍ ကျောင်းဒကာကြီးမှာ အင်္ဂလိပ်အစိုးရ အဖမ်းခံရမည် စိုးသဖြင့် လိုက်လံ ပိတ်ပင်ခဲ့ရဖူးသည်။**

ထိုခေတ်က လူတော်တော်များများပင် ဖူးတွေ့ကြရသည်။ နေဝင်လျှင် တန်ခိုးတော်ဖူးရအောင်ဟုဆိုကာ ဝေဘူချောင်တစ်လျှောက်ရှိ တောင်ကြိုတောင်ကြား၌ ရံဖန်ရံခါ လူသုံးလေးရာခန့် သူ့အုပ်စုနှင့်သူ ရှိနေတတ်သည်။ မဖူးမြင်ကြရသူ မရှိသလောက်ပင်။ နောက်ပိုင်းကာလတွင် ဆရာတော် ကိုယ်တိုင်ကလည်း ဖုံးအုပ်ထားတော်မူသဖြင့် ဝေဘူဆရာတော် ဈာန်ပျံသတဲ့ မြက်ရိတ်ကုလားက မြင်တယ်ဆိုပဲ ဟူသော ကောလာဟလလောက်နှင့်သာ ကျေနပ်နေခဲ့ကြရသည်။

ကျောက်ဆည် ဝေဘူချောင်၏ အနေအထားမှာ တောင်ဘက် အရှေ့ဘက်နှင့် မြောက်ဘက်မျက်နှာ၌ တောင်များ အနိမ့်အမြင့် တောက်လျှောက် တံတိုင်းကာရံထားသည်။

**ဆရာတော်သည် နံနက်တစ်ကြိမ် ညတစ်ကြိမ် တန်ခိုးတော်ဖြင့် တောင်ရိုးတစ်လျှောက် စေတီတော်များအား မီးပူဇော်လေ့ရှိသည်။**

**ရံခါ တစ်တောင်နှင့်တစ်တောင် ကူးသန်းရာတွင် မီးလုံးကြီး ရွှေရောင်အလုံးကြီးအဖြစ်လည်းကောင်း လူကိုယ်တော်တိုင် အရောင်အဝါ ထွန်းလင်းတောက်ပြောင်စွာ ကူးသန်း၍လည်းကောင်း မီးပူဇော်လေ့ရှိသည်။ ဘုရားရင်ပြင်ပေါ်ရောက်၍ ဦးတစ်ခါချလျှင် သပိတ်မှောက် အထက်ဖောင်းရစ် နှစ်ရစ်ခန့် လျှပ်စစ်မီးပွင့်သကဲ့သို့ တစ်ပြိုင်နက် တစ်ချက်တည်း တစ်ခွေလုံးလင်းသွား**



၏။ သုံးကြိမ်ဦးချပြီးလျှင် ထီးတော်အထိ စေတီအပေါ်ပိုင်းအားလုံးလင်းသွားသည်။

အနောက်တောင်ဘက်ရှိ အမြင့်ဆုံး ရွှေသာလျောင်းတောင်မှ အနောက်မြောက်ဘက်ရှိ တောင်နံ့သာ၊ မြို့မြောက်ဘက်ရှိ မင်းမွေးတောင်များသို့ ကူးသန်းပူဇော်သောအခါ အသားတော်ရော သင်္ကန်းရောင်ပါ ရွှေရောင်ဝင်းဝင်းတောက်ကာ ဖူးမဝအောင်ရှိလေသည်။

(ကျမ်းကိုး။ ယင်း၊စာ၊ ၅၁)

## အင်ကြင်းပင်က သက်သေပြ

ဆရာတော်ကြီးကိုယ်တိုင် စိုက်ပျိုးတော်မူခဲ့သော အင်ကြင်းပင်ကြီးများသည် အချိန်အခါမဟုတ်ပါဘဲလျက် အင်ကြင်းပွင့်များ အထူးအဆန်း တခမ်းတနားဖူးပွင့်လာခဲ့ကြလေသည်။ ထိုသို့သောကာလတွင် ဝေဘူဆရာတော်သည် ခင်ဦးမြို့နယ်၊ အင်ကြင်းပင်ကျေးရွာ ဇာတိနေရာသို့ ပြန်လည်ကြွသွားတော်မူပြီးလျှင် ထိုအင်ကြင်းပင်ရွာရှိ အင်ကြင်းပင်ကမ္မဋ္ဌာန်းကျောင်း၌ပင် အင်ကြင်းပွင့်များ အချိန်အခါမဟုတ်ပါဘဲလျက် အခါမဲ့ ဖူးပွင့်ဝေဆာနေကြသောအချိန်တွင် တစ်ဘဝ ငြိမ်းတော်မူခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၈)

၁၉၇၇ ဝေဘူဆရာတော်ကြီးသည် ၁၉၇၇ ခုနှစ်၊ ဇွန်လ၊ ၂၆ ရက် (၁၃၃၉ ခု၊ ပထမဝါဆိုလဆန်း ၁၁ ရက်) တနင်္ဂနွေနေ့၊ ည ၇ နာရီ မိနစ် ၃၀ အချိန်၊ သက်တော် ၈၂ နှစ်၊ သိက္ခာတော် ၆၂ ဝါအရတွင် ဇာတိရပ်မြေ အင်ကြင်းပင် ကမ္မဋ္ဌာန်းဌာန၌ ခန္ဓာဝန်လက်စသိမ်းကာ တစ်ဘဝ ချုပ်ငြိမ်းတော်မူခဲ့ပါသည်။

(ကျမ်းကိုး၊ (၁) မောင်မောင် (ယမုံနာ) ရွှေဘိုအောင်မြေ ဝေဘူဆရာတော်ဘုရားကြီး၏ တရားအနှစ်သာရများ၊ ဂန္ဓီရမဂ္ဂဇင်း၊ ၂၀၀၃ ခု၊ အောက်တိုဘာလ၊ စာ ၃၈-၄၁)

(ကျမ်းကိုး၊ (၂) တင်အောင်သွင်၊ ကျေးဇူးတော်ရှင် ဝေဘူဆရာတော်ကြီး၊ ဂန္ဓီရမဂ္ဂဇင်း၊ ၂၀၀၃ ခု၊ အောက်တိုဘာလ၊ စာ ၄၈-၅၃)

(ကျမ်းကိုး၊ (၃) ဓမ္မာစရိယ ဦးဌေးလှိုင်၊ ကျေးဇူးတော်ရှင် ဝေဘူဆရာတော်ဘုရားကြီး၏ သန္တိဋ္ဌိက တရားတော်များ၊)

(ကျမ်းကိုး၊ (၄) လူမင်းဟန်၊ ပျဉ်းမနား၊ ဝေဘူဆရာတော်ကြီး၏ ထေရုပ္ပတ္တိနှင့် ကွင်းဆက်များ)

(ကျမ်းကိုး၊ (၅) မောင်မိုးဦး၊ ဝေဘူဆရာတော်ကြီး၏ သန္တိဋ္ဌိကဓမ္မလမ်းစဉ်၊ ဂန္ဓီရမဂ္ဂဇင်း၊ ၂၀၀၃ ခု၊ ဩဂုတ်လ စာ ၄၄ - ၄၆ )

(ကျမ်းကိုး၊ (၆) သာသနာရေး ဦးစီးဌာန၊ ၁၉၇၈ ခု၊ နိုဝင်ဘာလ ဒုတိယအကြိမ်၊ ဝေဘူဆရာတော်ကြီး ဟောကြားခဲ့သော တရားအနှစ်သာရများ)

ရဟန္တာဟုကျော်ကြားတော်မူသော ကမ္ဘာ့သာသနာပြု

# တောင်ပုလုတောရ ကမ္ဘာအေးဆရာတော်ဘုရားကြီး

## ခေတ်ဒီ ၁၈၉၆ – ၁၉၈၆ ( ၁၂၅၈ – ၁၃၄၈)



တော်ဝင်ပြိုး



တောင်ပုလုဆရာတော်ဘုရားကြီးနှင့် အံ့ဖွယ်ဖြစ်ရပ်ဆန်းများကို ဖတ်ရှုရသဖြင့် လွန်စွာကြည်ညိုမိပါသည်။ အမေရိကန် ဓမ္မဒူတခရီးစဉ် ဘန်ကောက်မှ ဆန်ဖရန်စစ္စကိုသို့သွားရာ ဟောင်ကောင်တွင် တစ်ထောက်နားတော်မူပါသည်။ ထိုစဉ်က ဖြစ်ရပ်ဆန်းတစ်ခုဖြစ်ပါသည်။ ခုနှစ်အားဖြင့် ၁၉၇၈ ခုနှစ်ဖြစ်ပါသည်။ ထိုစဉ်က ဆရာတော်ကြီးသည် ၈၂ နှစ် ရှိပြီးဖြစ်ကြောင်းသိရပါသည်။ ဖြစ်ရပ်ဆန်းမှာ

> ၂ - ၈- ၇၈ ခုနှစ် အမေရိကန် စံတော်ချိန် ည ၂ နာရီ ၅၅ မိနစ်အချိန်တွင် ဆန်ဖရန်စစ္စကိုမြို့သို့ ဆိုက်ရောက်တော်မူသည်။ ဆရာတော်ကြီးသည် အမေရိကန်သို့ ကြွစဉ်စီးလာသော လေယာဉ်၏ စက်တစ်လုံး ချို့ယွင်းပျက်စီးကြောင်း လေယာဉ်မှူးက ပြောသည်။ လေယာဉ်မှူးက ပျက်သောစက်ခေါင်းဘက်သို့ကြည့်ရာ အဝတ်အဝါရောင် ဝတ်ဆင်ထားသော လူတစ်ဦးက လေယာဉ်၏ တောင်ပံပေါ် ရပ်ပြီး ပျက်သောစက်ကို လက်ညှိုးဖြင့် ထိုးနေသည်ကိုမြင်တွေ့သဖြင့် သူ၏ လက်ထောက်လေယာဉ်မှူးအား ကြည့်စမ်း၊ ဟိုမှာ လူတစ်ယောက်ဟု ပြောလိုက်သည်။ ထိုသူကကြည့်ရာ ဘယ်သူမှ မမြင်ဟု ပြောသဖြင့် လေယာဉ်မှူးလည်း မိမိမြင်ယောင်ပြီး မှားလေသလားဟု ဆိတ်ဆိတ်ပင် နေလိုက်တော့သည်။
>
> **ဆန်ဖရန်စစ္စကို လေဆိပ်ကို ချောမောစွာ လေယာဉ်ဆိုက်ရောက်၍ ဆရာတော်ကြီးအား လမ်းလျှောက်လာသည်ကို လေယာဉ်မှူး မြင်တွေ့သော အခါ အနားရှိသူများအား မိမိမြင်ခဲ့ရသော လေယာဉ်တောင်ပံပေါ်၌ ထိုင်နေသူမှာ ထိုပုဂ္ဂိုလ်ပင်ဖြစ်ကြောင်း၊ မျက်မှန်အမည်းတပ်ထားသည်ကို မိမိကောင်းစွာမှတ်မိကြောင်း ပြောပါသည်။**

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၆ ခု မေလ၊ ၄၄)

အထက်ပါ အချက်အလက်များမှာ ကိုယ်တွေ့မျက်မြင် အမေရိကန်လေယာဉ်မှူး၏ ပြောကြားချက်များ ဖြစ်ကြောင်းသိရပါသည်။ ၎င်းနောက် လူကိုယ်တိုင် တွေ့ခြင်းမဟုတ်ဘဲ ဓာတ်ပုံကိုပြသ၍ မေတ္တာပို့ရာနှင့် စပ်လျဉ်းသော ဖြစ်ရပ်ဆန်းမှာလည်း အံ့သြကြည်ညိုဖွယ်ရာဖြစ်ပါသည်။

> **ဆရာတော်ကြီး အမေရိကန်တွင်ရှိစဉ် အမေရိကန် ဆရာဝန်တစ်ဦးက သူ၏ အသည်းအသန်ဖြစ်နေသော လူနာငါးဦး၏ ဓာတ်ပုံများပြပြီး မေတ္တာပို့သဆုတောင်းပေးပါရန် လျှောက်ထားလာသည်။ ဆရာတော်ကြီးက ဓာတ်ပုံများကို ကြည့်ကာ သုံးပုံယူထားပြီး နှစ်ပုံပြန်ပေးလိုက်သည်။ နောက်တစ်နေ့တွင် ပြန်ပေးလိုက်သော ဓာတ်ပုံနှစ်ပုံရှင်လူနာများ ကွယ်လွန်သွားကြပြီး ယူထားသော ဓာတ်ပုံသုံးပုံ၏ လူနာရှင်များမှာ ရောဂါသက်သာခဲ့ကြသည်။**

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၆ ခု မေလ၊ ၄၄)

၎င်းအပြင် ကုမရသော ရောဂါများပင် ဆရာတော်ဘုရားကြီး၏မေတ္တာဓာတ်ကြောင့် ပျောက်ကင်းကြောင်း ဖြစ်ရပ်ဆန်းများမှာလည်း ကြားနာရလေလေ ကြည်ညိုဖွယ်ရာဖြစ်လေလေ ဖြစ်ပါသည်။

> တစ်ကြိမ်က အစိုးရအရာရှိ အမျိုးသမီးတစ်ဦး ကင်ဆာရောဂါရရှိကာ ဆေးရုံမှ လက်လျှော့လိုက်သဖြင့် နေအိမ်သို့ သက်ဆိုင်သူများက ပြန်ခေါ်ခဲ့ကြသည်။ နောက်ဆုံး မျှော်လင့်ချက်ဖြင့်ကုသရန် ဆရာတော်ကြီးကို နေအိမ်သို့ ဆွမ်းပင့်ကျွေးပြီး လူနာအား မေတ္တာပို့ပေးပါရန် လျှောက်ထားကြပါသည်။ ဆရာတော်ကြီးက လူနာအခန်းသို့ ကြွပြီး အတန်ကြာကြည့်ကာ မေတ္တာပို့ပြီး ပြန်ကြွသွားပါသည်။ နောက်တစ်နေ့တွင် ထိုအိမ်သို့ ဝတ်ဖြူစင်ကြယ်ဖြင့် အဘိုးအိုတစ်ဦး ရောက်ရှိလာပြီး လူနာအားမေးကာ ဆေးပေး



သွားပါသည်။ ထိုဆေးဖြင့်ပင် ရောဂါ လုံးဝပျောက်သွားပြီး ဘန်ကောက်ရှိ ကုလသမဂ္ဂ အစည်းအဝေးတစ်ခုသို့ပင် တက်ရောက်သွားနိုင်ခဲ့ပါသည်။

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဲနှမဂ္ဂဇင်း၊ ၂၀၀၆ ခု မေလ၊ ၄၄-၄၅)

၎င်းအပြင် ဆရာတော်ကြီးချီးမြှင့်သော ကျင့်စဉ်ကို ကျင့်ကြံအားထုတ် အလုပ်လုပ်သဖြင့် အကျိုးထူးများ ခံစားရသော ဖြစ်ရပ်ဆန်းများကလည်း ထေရဝါဒ ဗုဒ္ဓသာသနာတော်ကြီး၏ ဂုဏ်ကို ယုံကြည်တိုးပွားစေပါသည်။

ဆန်ဖရန်စစ္စကိုမြို့ တောင်ပုလုတောရ ကမ္ဘာအေး ကျောင်းတိုက်တွင် သီတင်းသုံးတော်မူစဉ် အိန္ဒိယ အမျိုးသမီးတစ်ဦးသည် လူအတွဲဖြင့် ဆရာတော်ကြီးကို လာရောက်ဖူးမြော်သည်။ သူမမှာ ကင်ဆာရောဂါရှင်ဖြစ်ပြီး ဆေးရုံမှ လက်လျှော့လိုက်ပြီး သေရက်နီးနေသူဖြစ်၍ ကယ်မတော်မူပါရန် ရှိခိုးတောင်းပန်လေသည်။

ဆရာတော်ကြီးက သုံးဆယ်နှစ်ကောဋ္ဌာသ ကမ္မဋ္ဌာန်းမှ ရောဂါနှင့်ဆိုင်ရာ ပဉ္စကို တစ်နေ့သုံးကြိမ် နံနက်တစ်နာရီ၊ နေ့တစ်နာရီ၊ ညတစ်နာရီ ပထမငါးရက်၊ အသွား (အနုလုံ) ဒုတိယ ငါးရက် အပြန် (ပဋိလုံ)၊ တတိယ ငါးရက် အသွားအပြန် (အနုပဋိလောမ)၊ ရွတ်ပြီး တရားအားထုတ်ရန် ညွှန်ကြားလိုက်ပါသည်။ ဆရာတော်ကြီး အမေရိကန်မှ ပြန်မကြွမီ ထိုအမျိုးသမီးကြီးသည် ကိုယ်တိုင်ကားမောင်းပြီး ကျောင်းတိုက်သို့လာ၍ သေတွင်းမှ လွတ်ခဲ့ကြောင်း လျှောက်ထားခဲ့ပေသည်။

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဲနှမဂ္ဂဇင်း၊ ၂၀၀၆ ခု မေလ၊ ၄၅)

သာသနာပြု ဒေါက်တာ ရီနာဆာကား မိသားစုနှင့်စပ်လျဉ်း၍ မိသားစုတစ်ခုလုံး ဗုဒ္ဓဘာသာဝင်များ ဖြစ်လာကြသည်မှာလည်း အံ့ဖွယ်ဖြစ်ပါသည်။

**ဒေါက်တာရီနာဆာကား၏အစ်ကို ဒေါက်တာဆာကားသည် မိတ္ထီလာနယ်တွင် ဆရာဝန်အဖြစ် တာဝန်ထမ်းဆောင်ခဲ့ဖူးပါသည်။ တစ်နေ့သောညတစ်ညသ၌ ဒေါက်တာဆာကားသည် တောင်ပုလုတောရအနီးက ဂျစ်ကားဖြင့် ဖြတ်သွားစဉ် တောင်ပုလုဆရာတော်ကြီး ကောင်းကင်၌ စင်္ကြံကြွနေသည်ကို ဖူးတွေ့လိုက်ရသည်။ ထိုအချိန်မှစ၍ ဒေါက်တာဆာကားတို့မိသားစုသည် ဆရာတော်ကြီးထံတွင် သရဏဂုံဆောက်တည်လျက် ဗုဒ္ဓဘာသာကို ခံယူကိုးကွယ်ဆည်းကပ်ခဲ့ကြလေသည်။ သူတို့မိသားစုသည် မူလမျိုးရိုးအားဖြင့် ဟိန္ဒူဘာသာဝင် မာရဝါရီမိသားစုဖြစ်သည်။**

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဲနှမဂ္ဂဇင်း၊ ၂၀၀၆ ခု မေလ၊ ၄၅)

ဒေါက်တာ ရီနာဆာကားသည် ၁၉၇၁ ခုနှစ်တွင် အိန္ဒိယပြည်သို့ သွားခဲ့သည်။ ထိုမှ တစ်ဖန် ကာလီဖိုးနီးယား တက္ကသိုလ်တွင် အရှေ့တိုင်း ပညာရပ်များ၌ ဗုဒ္ဓကျမ်းစာ ညွှန်ကြားရေးမှူး တာဝန်ကိုပင် ထမ်းဆောင်နိုင်ခဲ့သည်။

ဖြစ်ရပ်ဆန်းတစ်ခုမှာ ဆရာတော်ကြီး ထိုင်းနိုင်ငံသို့ ကြွရောက်တိုင်း ဆရာတော် နှစ်သက်ရာ ဆွမ်းကွမ်းနှင့် ဝေယျာဝစ္စများ အမြဲတမ်း ပြုစုစောင့်ရှောက်သူမှာ ထိုင်း မြန်မာ အမျိုးသမီးကြီး ဒေါ်အေးကြွယ် ဖြစ်ပါသည်။ ဒေါ်အေးကြွယ်သည် ဆရာတော်ကြီး ပျံလွန်တော်မူကြောင်း ကြားသိရသဖြင့် နောက်ဆုံး ဖူးမြော်ကန်တော့ရန် ရဟန်းတော်တစ်ပါး အပါအဝင် လူ ၁၅ ဦးပါဝင်သော အဖွဲ့ဖြင့် ဘန်ကောက်မှ ရန်ကုန်မြို့သို့ ၃- ၇- ၈၆ နေ့တွင် ဘီအေစီလေယာဉ်နှင့် ရောက်ရှိလာကြပါသည်။ ထိုစဉ်က ဖြစ်ရပ်ဆန်းဖြစ်ပါသည်။ တိုး၍ တိုး၍ အံ့သြကြည်ညိုဖွယ်ရာ ဖြစ်ပါသည်။



၄-၇-၈၆ နေ့ နံနက် ၄ နာရီခန့်တွင် မိတ္ထီလာမြို့သို့လာခဲ့ရာ တဲစုရွာသို့ ၅-၇-၈၆ နေ့ နံနက် ၁နာရီ ၃၀ မိနစ်တွင် ရောက်ရှိခဲ့သည်။

ရောက်ရောက်ချင်းပင် ဒေါ်အေးကြွယ်က ဆရာတော်ကြီး၏ ရုပ်ကလာပ်ကို ဖူးမြော်ပြီး ဆရာတော်ဘုရား၊ တပည့်တော် မအေးကြွယ် ရောက်လာပါပြီဘုရား။ ဆရာတော်ဘုရားကို အစဉ်ကိုးကွယ်နိုင်ရန် ဓာတ်ပုံရိုက်ခွင့် ပြုတော်မူပါဘုရားဟု မျက်ရည်စက်လက်ဖြင့် လျှောက်ထားပြီး ဓာတ်ပုံသုံးပုံ ရိုက်ယူပါသည်။ ဘန်ကောက်သို့ ပြန်ရောက်ပြီး ဓာတ်ပုံများကို ကူးလိုက်သောအခါ ပထမပုံတွင် ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်မှ လက်ထောင်ပြနေသည်ကို မတွေ့ရပါ။ ဒုတိယပုံတော်တွင်မူ အေး မင်းတို့ ရောက်လာတာ ငါသိတယ်ဟု မိန့်တော်မူသွားသည့်အလား လက်ထောင်၍ ပြနေသည်ကို ထင်ရှားစွာတွေ့မြင်ရပါသည်။ ယခုဓာတ်ပုံတွင် အံ့ဩဖွယ်ရာ လက်ထောင်ပြနေသည်ကို မြင်တွေ့ရသဖြင့် ဆရာတော်ကြီး၏ တန်ခိုးတော်ကို ပိုမိုကြည်ညိုကာ သဒ္ဓါတရား တိုးပွားကြရပါသည်။

(ကျမ်းကိုး။ တင်အောင်သွင်၊ သူရဋ္ဌမဂ္ဂဇင်း။ ၂၀၀၆ ခု မေလ၊ ၄၅)

၁၉၈၆ ရန်ကုန်မြို့၊ တက္ကသိုလ်ရိပ်သာလမ်း ရှိ တောင်ပုလုကျောင်းတိုက်တွင် ၁၃၄၈ ခု၊ ကဆုန်လကွယ်နေ့ စနေနေ့ (၇-၆-၈၆) သက်တော် ၉၀ ဝါတော် ၇၀ အရတွင် စုတိကမ္မဇ ချုပ်ငြိမ်းတော်မူခဲ့ပါသည်။

(ကျမ်းကိုး။ တင်အောင်သွင်၊ သူရဋ္ဌမဂ္ဂဇင်း။ ၂၀၀၆ ခု မေလ၊ ၄၅)

မြမဥ္ဇူဘုရားသမိုင်းနှင့်အတူ တောင်ပုလုတောရ ကမ္မဋ္ဌာနအေးဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်းကို ဖတ်ရပြန်သည်။ ထိုဆရာတော်ကြီးနှင့်ပတ်သက်၍ တိမ်မြုပ်မယောင် ဖြစ်နေသည့် အချက်တစ်ခုမှာ တိကျစွာ ယခုပေါ်ထွက်လာ၍ ဝမ်းသာမိပါတော့သည်။

ဤကား အခြားမဟုတ်၊ ဆရာတော်ကြီးသည် နောက်ပါ သံဃာ ၂ ပါးနှင့်အတူ ပျော်ဘွယ်တွင်းရွာမှသထုံ မင်းကွန်း ဇေတဝန်ဆရာတော်ကြီးထံသို့ ခြေကျင်ခရီးဖြင့် အရောက်သွားကာ ဝိပဿနာစုရအတွက် နည်းနာခံယူသောအချက် ဖြစ်ပေသည်။

(ကျမ်းကိုး၊ မိတ္ထီလာ ဝမ်းတွင်းနယ် တဲစုရွာတွင် တောင်ပုလုတောရ ကမ္မဋ္ဌာနအေးဆရာတော်ကြီး ဦးဆောင်၍ အများပြည်သူတို့ ကိုးကွယ်ရန် ယခု တည်ထားပြီး ဖြစ်သော မြမဥ္ဇူစေတီတော်ကြီး၏ သမိုင်းအကျဉ်းကို အကျိုးတော်ဆောင် ဦးကေသဝ က ရှာဖွေစုဆောင်ပြီး ဆရာတော်ကြီး၏ ဆန္ဒတော်အရ ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။)

သို့ဖြစ်၍ တောင်ပုလုဆရာတော်ကြီးသည် သထုံ မင်းကွန်းဇေတဝန် ဆရာတော်ကြီး၏ တပည့် ဖြစ်ခဲ့ကြောင်း များစွာပေါ်လွင်ထင်ရှားပေတော့သည်။

(ကျမ်းကိုး၊ သာသနာရေးဦးစီးဌာနက ထုတ်သော သာသနာ့ရောင်ခြည် အတွဲ(၁)၊အမှတ်(၁) မှ 'သာသနာပြုပုဂ္ဂိုလ်ကျော်၊ တောင်ပုလုဆရာတော်'ခေါင်းစဉ်ပါရှိသော ဦးအောင်တင်ဓမ္မာစရိယ၊ ဘီအေ၏ ဆောင်းပါးကို ပိုမိုပြည့်စုံသဖြင့် ဆက်လက် ဖတ်ရှုလေ့လာသင့်ပါသည်။ ဆရာဦးအောင်တင်၏ အာဘော်အတိုင်း ထပ်မံဖော်ပြပါမည်။ ကြည်ညိုကြပါ။)

## မီးရှူးသန့်စင် ဖွားမြင်တော်မူခြင်း

တောင်ပုလု ဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကထာ ရုပ်ပုံလွှာကို မန္တလေးတိုင်းဒေသကြီး ဝမ်းတွင်း မြို့နယ်၊ တဲစုရွာ၊ မြမဥ္ဇူ ကျောက်စေတီတော်ကြီးသမိုင်းနှင့်အတူ ဖတ်ရှုရပါသည်။



ကျမ်းပြုဆရာတို့၏ ပညာပြည့်ဝနှလုံးလှမှုကိုထောက်ထား၍ တောင်ပုလုဆရာတော်ကြီးကို ပိုမိုကြည်ညိုနိုင်ခဲ့ပါသည်။ ထိုစာကို ကိုးကားတင်ပြပါမည်။

၁၈၉၇ ကျေးဇူးရှင် တောင်ပုလုတောရ ကမ္ဘာအေးဆရာတော်ကြီးသည် မန္တလေးတိုင်းဒေသကြီး ဝမ်းတွင်းမြို့နယ် တဲစုရွာ ခမည်းတော် တောင်သူကြီး ဦးရံနှင့် မယ်တော်ဒေါ်ရွှေသဲတို့မှ အေဒီ ၁၈၉၇၊ မတ်လ ၂၀ ရက်၊ (သက္ကရာဇ် ၁၂၅၈ ခုနှစ်၊ တပေါင်းလဆုတ် ၃ ရက်နေ့) စနေနေ့တွင် မီးရှူးသန့်စင် ဖွားမြင်တော် မူသော သားရတနာ ဖြစ်ပါသည်။ ငယ်မည်တော်ကား မောင်ပေါ်လာဟု ထင်ရှားခဲ့ပါသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈ )

## ကျောင်းသားအရွယ် လူ့မမယ်ဘဝ

၁၉၀၁ ဆရာတော်လောင်းလျာ မောင်ပေါ်လာသည် အေဒီ ၁၉၀၁ ခု (အသက် ၇ နှစ်) အရွယ်သို့ ရောက်သောအခါ ဘုန်းတော်ကြီး ကျောင်းသားဖြစ်လာခဲ့ရသည်။ ခမည်းတော် ဦးရံနှင့် မယ်တော် ဒေါ်ရွှေသဲတို့က တဲစုရွာ ရေဝန်းကျောင်း ဆရာတော် ဦးတေဇထံတွင် အပ်နှံကာ ပညာသင်ကြားစေခဲ့ပါသည်။

မောင်ပေါ်လာသည် သူငယ်တို့ တတ်အပ်ရာ အခြေခံစာပေများကိုသာမက ပန်းချီဆေးရေး စသော အနုပညာ အတတ်များကိုပါ ရေဝန်းကျောင်းဆရာတော် ဦးတေဇထံမှာပင် ဆည်းပူးသင်ကြားခဲ့ပေသည်။ ထိုစဉ်က ရေဝန်းကျောင်းတွင် ဆရာတော် ဦးတေဇနှင့် ဦးလက္ခဏတို့ သီတင်းသုံးလျက်ရှိကြရာ ဆရာတော် ဦးလက္ခဏထံတွင် သဒ္ဒါ, သင်္ဂြိုဟ် စသော ပိဋကတ် အခြေခံ စာပေများကိုလည်း သင်ကြားသင်ယူခဲ့ရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၈ -၉ )

## ရှင်ရဟန်းအဖြစ် ရောက်တော်မူခြင်း

၁၉၁၀ တောင်ပုလု ဆရာတော်လောင်းလျာ မောင်ပေါ်လာသည် အေဒီ ၁၉၁၀ ခု၊ (အသက် ၁၄ နှစ်) အရွယ်သို့ ရောက်သောအခါ ခမည်းတော် မယ်တော်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရေဝန်းကျောင်းဆရာတော် ဦးတေဇထံတော်၌ ပဗ္ဗဇ္ဇ ရှင်သာမဏေအဖြစ်သို့ ရှင်နန္ဒိယဟူသော ဘွဲ့အမည်ဖြင့် ရောက်တော်မူခဲ့လေသည်။

၁၉၁၇ သာမဏေဝါ ၇ ဝါရ၍ သက်တော် ၂၁ နှစ်သို့ ရောက်သည့် အေဒီ ၁၉၁၇ ခု (၁၂၇၉ ခုနှစ်) ဝမ်းတွင်းမြို့နယ် တဲစုရွာနေ ဦးထွန်းအေး ဒေါ်ကြာမွှေးတို့၏ စတုပစ္စယာနုဂ္ဂဟဖြင့် တဲစုရွာ ရေဝန်းကျောင်း ဆရာတော် ဦးတေဇကိုပင် ဥပဇ္ဈာယ်ပြုလျက် မြင့်မြတ်သော ဥပသမ္ပဒကံဆောင် ရဟန်းဘောင်သို့ ရောက်တော်မူခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၉ )

## စာပေ ပရိယတ္တိ သင်ကြားဆည်းပူးတော်မူခြင်း

၁၉၂၂ တောင်ပုလုဆရာတော်လောင်းလျာ အရှင်နန္ဒိယသည် ရဟန်းဖြစ်ပြီးနောက် အေဒီ ၁၉၂၂ ခု (၁၂၈၃ ခုနှစ် ) ၄ ဝါ ရသည်အထိ ငယ်ဆရာဖြစ်သော ကျေးဇူးရှင် ရေဝန်းဆရာတော် ဦးတေဇထံတွင် ဆရာတော်၏ ဝတ်ကြီးဝတ်ငယ် အသွယ်သွယ်သော ဝေယျာဝစ္စတို့ကို ပြုစုဆောင်ရွက်ရင်း ပိဋကတ်အခြေခံ စာဝါများကို ပြည့်စုံလုံလောက်အောင် သင်အံကြိုးကုတ် အားထုတ်ခဲ့လေသည်ဟု သိရပါသည်။

၁၉၂၃ အေဒီ ၁၉၂၃ ခု၊ (၁၂၈၄ ခု ) ၅ ဝါမြောက် ရောက်သောအခါ အခြေခံ စာပေများ လုံလောက်ပြီဖြစ်၍ ပါဠိတော် အဋ္ဌကထာ ဋီကာစသော ကျမ်းကြီးများကို သင်ကြား



လေ့လာ ဆည်းပူးနိုင်ရန် မန္တလေးသို့ စာသင်ကြွခဲ့လေသည်။ မန္တလေးသို့ ရောက်သော အခါ ဒက္ခိဏာရာမ ဘုရားကြီးတိုက် ရွှေဘိုကျောင်းတွင် သီတင်းသုံးနေထိုင်ကာ ပညာများ ဆည်းပူးလေ့လာခဲ့လေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၉ )

အရှင်နန္ဒိယသည် ရွှေဘိုကျောင်း ဆရာတော် အရှင်အာစာရထံတွင် အဘိဓမ္မာကျမ်းစာများကို လေ့လာဆည်းပူးခဲ့လေသည်။ ထိုအချိန်က ဒက္ခိဏာရာမကျောင်းတိုက် ဆရာတော်များဖြစ်ကြသည့် ဆရာတော် ဦးဥေယျထံတွင် ညဝါတွင် ကစ္စာဝိတရဏီ အဋ္ဌကထာတို့ကိုလည်းကောင်း ဆရာတော် ဦးတေဇဝန္တထံတွင် သာရတ္ထဒီပနီ ဋီကာကိုလည်းကောင်း၊ ဆရာတော် ဦးနာရဒထံတွင် ဝိနည်းကျမ်းများကို လည်းကောင်း သင်ကြားဆည်းပူးခဲ့လေသည်။ အရှင် နန္ဒိယသည် မန္တလေးတွင်သာမက အခြားသော စာချအကျော် ဆရာတော်များထံတွင်လည်း ပညာများ သင်ကြားဆည်းပူးခဲ့သေးသည်။ ၎င်းစာချ အကျော် အမော်များအနက် ပခုက္ကူတိုက်ထွက် ကျွဲပွဲအိုးဆိပ် ဆရာတော် ဦးသာသနထံတွင် ဝိနည်း ၅ ကျမ်းနှင့် သုတ် ၃ ကျမ်းကို ဆိုဝါများအဖြစ်ဖြင့် ပေါက်ရောက် တတ်မြောက်အောင် သင်ကြားဆည်းပူးခဲ့လေသည်။ ထို့ကြောင့် အရှင်နန္ဒိယသည် ပိဋကတ် ကျမ်းစာများကို မန္တလေးနည်း ပခုက္ကူနည်း စုံလင်စွာဖြင့် လေ့လာသင်ကြားတတ်မြောက်ခဲ့သော ဆရာတော်တစ်ပါး ဖြစ်လေသည်ဟု လေ့လာတွေ့ရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၀ )

## စာပေပရိယတ္တိ သင်ကြားပို့ချတော်မူခြင်း

၁၉၂၅ အရှင်နန္ဒိယသည် မန္တလေးတွင် စာသင်နှစ် ၄ နှစ်အရ အေဒီ ၁၉၂၅ ခု (သက္ကရာဇ် ၁၂၈၇ ခုနှစ်)တွင် ညီတော်ဖြစ်သော သာစည်မြို့ ရေလယ်ကျောင်း ဆရာတော် အရှင်နန္ဒောဘာသ၏ လျှောက်ထား တောင်းပန်ချက်အရ သာစည်မြို့ ရေလယ်ကျောင်းတိုက်ကြီးကို အလှူခံရကာ စာချဆရာတော်အဖြစ် ပရိယတ္တိ သာသနာတော်ကို စတင်ချီးမြှောက်ခွင့် ရခဲ့လေသည်။

ဤသို့ဖြင့် ဆရာတော် ဦးနန္ဒိယသည် စာသင်သားအဖြစ်မှ စာချဆရာတော် အဖြစ်သို့ ရောက်ရှိကာ ပရိယတ္တိ သာသနာ့တာဝန်များကို ထမ်းဆောင်ခဲ့လေသည်။

၁၉၃၈ ထိုစဉ်က သာစည်မြို့ ရေလယ်ကျောင်းတိုက်ကြီးတွင် စာသင်သား သံဃာ တော် တစ်ရာကျော်မျှ ပညာရင်နို့ သောက်စို့လျက် ရှိကြလေသည်။ ဆရာတော်သည် စာသင်သား ရဟန်းသာမဏေများအား အေဒီ ၁၉၃၈ ခု (၁၂၉၉ ခု ) သိက္ခာတော် ၂၀ ဝါ ရသည့်တိုင်အောင် ပရိယတ္တိ စာပေကျမ်းဂန်များကို သင်ကြားပို့ချပေးခဲ့လေ သည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၀-၁၁ )

## ပရိယတ္တိမှ ပဋိပတ္တိသို့ ကူးခြင်း

၁၉၃၇ ဆရာတော် ဦးနန္ဒိယသည် သာစည်မြို့ ရေလယ်ကျောင်းတိုက်ကြီးတွင် စာပေပို့ချနေ စဉ် မူလကြံရွယ်ရင်းရှိသည့်အတိုင်း အေဒီ ၁၉၃၇ ခု (သက္ကရာဇ် ၁၂၉၉ ခုနှစ်) သိက္ခာ ၂၀ ဝါအရတွင် ရေလယ်ကျောင်းတိုက်ကြီးနှင့်အတူ တပည့်စာသင်သား သံဃာ တော်များကိုပါ သံယောဇဉ်ဖြတ်ကာ နောက်ပါ သီတင်းသုံးဖော် အရှင်နန္ဒောဘာသ၊ ထူးတွင်းဆရာတော်များနှင့်အတူ သထုံမြို့သို့ ဝိပဿနာနည်းခံရန် ကြွရောက်တော်မူခဲ့ သည်ဟု သိရှိရပါသည်။



## သထုံ မင်းကွန်းဇေတဝန် ဆရာတော်ကြီးထံမှာ ၄ နှစ်တာ

ထိုအချိန်ကား မင်းကွန်းဇေတဝန် ဆရာတော်ကြီးသည် သထုံမြို့၌ မဟာသတိပဋ္ဌာန် ဝိပဿနာတရားရေအေး အမြိုက်ဆေးကို တိုက်ကျွေးနေသောအချိန်တည်း။ သထုံမြို့ မင်းကွန်း ဇေတဝန် ကမ္မဋ္ဌာန်းဌာနကြီး၌ အနယ်နယ်အရပ်ရပ်မှ ရဟန်းရှင်လူများလာရောက် တရားအားထုတ်ကြရာ အရှင် နန္ဒိယနှင့် သီတင်းသုံးဖော်များလည်း ပါဝင်လေသည်။ သထုံမင်းကွန်း ဇေတဝန် ဆရာတော်ကြီးသည် တရားအားထုတ်ရန်လာသော ရဟန်းတော်များအတွက် စည်းကမ်းချက်များ သတ်မှတ်ထားလေသည်။ ၎င်းတို့မှာ ပါတိမောက်ရ ရမည်။ ဆွမ်းခံစားရမည်။ ဝတ်ဆောက်တည်ပြီး ဖြစ်ရမည်ဟု သတ်မှတ်ထား လေသည်ဟု သိရပါသည်။

ယောဂါဝစရ ရဟန်းဖြစ်လာခဲ့သော အရှင်နန္ဒိယသည် သထုံဇေတဝန် ဆရာတော်ကြီးထံ ဝိပဿနာ ကမ္မဋ္ဌာန်းနည်းများကို နည်းခံရန် ၃ နှစ်နေခွင့်ရလေသည်ဟု သိရပါသည်။

သို့သော်လည်း သီလရှင်ဆရာကြီး ဒေါ်ကုသလ၏ လျှောက်ထား တောင်းပန်ချက်နှင့် ဇေတဝန် ဆရာတော်ကြီး၏ စေခိုင်းတိုက်တွန်းတော်မူချက်ကြောင့် မော်လမြိုင် နှင့် ၆ မိုင်ခန့်ကွာဝေးသော ခံရွှင်းရွာကျောင်းသို့ ကြွရောက်ကာ ၂ နှစ်ကြာမျှ ဝိပဿနာ ကမ္မဋ္ဌာန်းနည်းများ ထပ်ဆင့်ဖြန့်ဖြူးခဲ့ရ လေသည်။

ဆရာတော် အရှင်နန္ဒိယသည် သထုံဇေတဝန်ဆရာတော်ကြီးထံတွင် ၂ နှစ်နှင့် ခံရွှင်းရွာတွင် ၂ နှစ်၊ ပေါင်း ၄ နှစ်တာကာလမျှ အောက်အရပ်ဒေသတွင် ဝိပဿနာ ကမ္မဋ္ဌာန်းနည်းများ ကျင့်ကြံ ကြိုးကုတ် အားထုတ်တော် မူခဲ့လေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၁-၁၂ )

> မဟာစည်ဆရာတော်ကြီးသည် သိက္ခာတော် ၇ ဝါ အရတွင် မင်းကွန်းဆရာတော် ကြီးထံသို့ ရောက်ရှိလာသည်ဟု အမှတ်အသားရှိရာ တောင်ပုလုဆရာတော်ကြီး သည်လည်း မဟာစည်ဆရာတော်ကြီးနှင့် တစ်ချိန်တည်း အတူရောက်ရှိပါသလားဟု မင်္ဂလာဦးအောင်မြင့်က မေးလျှောက်ခဲ့ဖူးပါသည်။ တောင်ပုလုဆရာတော်ကြီးက ဘုန်းကြီးက အလျင်ကျတယ်ဟု မိန့်တော်မူပါသည်။
>
> (ကျမ်းကိုး၊ ဦးအောင်မွန်၊ ကျေးလူရှင် တောင်ပုလု ကမ္ဘာအေး ဆရာတော်ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ ၁၉၈၇ ခုနှစ်၊ ဧပြီလ၊ စာ ၁၀)

## ဓုတင်တရား ၁၃ ပါးနှင့် တရားကျင့်ခြင်း

၁၉၄၁-၁၉၅၃ ဆရာတော် အရှင်နန္ဒိယသည် အေဒီ ၁၉၄၁ ခု (သက္ကရာဇ် ၁၃၀၃ ခုနှစ်)တွင် အောက်မြန်မာပြည်မှ ပြန်လည်ကြွချီခဲ့၍ မိမိဇာတိ ဌာန ဖြစ်သောတဲစုရွာဝန်းကျင် တွင် အေဒီ ၁၉၅၃ ခုနှစ်၊ (၁၃၁၅ခုနှစ်) အထိ ၁၂ နှစ်ကြာမျှ တောရဆောက်တည်၍ ဓုတင်တရားများနှင့် ဝိပဿနာကမ္မဋ္ဌာန်းနည်းများကို ကိုယ်နှင့်အသက် မငဲ့ကွက်ဘဲ အရိုးကြေကြေအရေခန်းခန်း ကျင့်ကြံကြိုးကုတ် အားထုတ်တော်မူခဲ့ လေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၂ )၊ (ကျမ်းကိုး၊ ဦးအောင်မွန်၊ ကျေးလူရှင် တောင်ပုလု ကမ္ဘာအေး ဆရာတော် ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ ၁၉၈၇ ခုနှစ်၊ ဧပြီလ၊ စာ ၁၀ )

တောင်ပုလုဆရာတော်ကြီးသည် လူတွေ့မခံဘဲ၊ တရားကျင့်ခဲ့ကြောင်းကိုလည်း အားကျ ကြည်ညို



ဖွယ်ရာ တွေ့ရှိရပါသည်။ ၎င်းအပြင် ပရိသတ်များလာလျှင် အခြားတစ်နေရာသို့ ပြောင်းရွှေ့ သွားတတ်ကြောင်းလည်း လေ့လာတွေ့ရှိရပါသည်။

ဆရာတော်ကြီးသည် သတိပဋ္ဌာန်တရားတော်ကို အားထုတ်ကြောင်း ဝုတင်တရား ၁၃ ပါးကို မပြတ်ကြိုးကုတ်အားထုတ်ကြောင်း လေ့လာသိရှိရပါသည်။

အဘယ်ကြောင့်ဆိုသော် ဆရာတော်ကြီးသည် ဝါ ၂၀ အရ တောထွက်သည်မှစ၍ ဆွမ်းခံရုံမှအပ လူသူနှင့် အတွေ့မခံဘဲ တစ်တောထွက်ဝင် တစ်ပင်ငုပ်လျှိုး တစ်ချိုတိုး၍ တရားကျင့်ခဲ့သည်ကို ယခု တောင်ပုလုတောရဟူ၍ အတည်တကျ မပေါ်ထွန်းမီ ကာလကပင် ဖူးတွေ့ခဲ့ရသောကြောင့် ဖြစ်ပေသည်။

တစ်နေရာတွင် အတန်ကြာနေမိ၍ လူများ အရောက်အပေါက်များလာသော အခါ ဆရာတော်ကြီးသည် ထိုနေရာကိုစွန့်ခွာ၍ အခြားတစ်နေရာသို့ ပြောင်းရွှေ့ကြွသွားတတ်လေသည်။ ထိုစဉ်က ဆရာတော် သီတင်းသုံးနေထိုင်ခဲ့သော ဒေသများမှာ ရံခါ ကျောက်ဆင်တောရ၊ ရံခါ သပြေချောင်း၊ ရံခါ တောင်ပုလု စသည်ဖြင့် ပလိဗောဓ ကြောင့်ကြမှုများကိုဖြတ်ကာ တောရဆောက်တည်ခဲ့လေသည်။

ဆရာတော်ကြီးသည် ကျောက်ဆင်တောရကို သီတင်းသုံးသည်မှစ၍ ဝုတင်တရား ၁၃ ပါးကို မပြတ်ကြိုးကုတ် အားထုတ်တော်မူရင်း သတိပဋ္ဌာန်တရားတော်ကို နေ့ ည မခြား ပွားများခဲ့လေသည်။

(ကျမ်းကိုး၊ သာသနာရေးဦးစီးဌာနက ထုတ်သော သာသနာ့ရောင်ခြည် အတွဲ (၁)၊ အမှတ် (၁) မှ 'သာသနာပြုပုဂ္ဂိုလ်ကျော်၊ တောင်ပုလုဆရာတော်' ခေါင်းစဉ်ပါရှိသော ဦးအောင်တင်၏ ဓမ္မာစရိယ၊ ဘီအေ၏ ဆောင်းပါး ယင်းကျမ်း၊ စာ ၁၂)

## တောင်ပုလု တောရဆရာတော် ပေါ်ထွန်းလာခြင်း

၁၉၅၁ တောင်ပုလု တောရဆရာတော် ပေါ်ထွန်းလာချိန်သည် တောင်ပုလုဆည်တော်ကြီး ပေါ်ပေါက်လာချိန်မှ စခဲ့လေသည်။ တောင်ပုလုဆည်တော်ကြီး ပေါ်ပေါက်လာချိန်ကား အေဒီ ၁၉၅၁ ခု (သက္ကရာဇ် ၁၃၁၃ ခုနှစ်)တွင် ဖြစ်လေသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၃ )

## ကျောက်ဆောင် ကမ်းပါးသည် ကျောင်းတော်နေရာသာဖြစ်တော့၏

ထိုအချိန်တွင် ဆရာတော်သည် တောင်ပုလုတောင်၏ အနီးတစ်ဝိုက်ရှိ သစ်ပင်ချုံပုတ်နှင့် ကျောက်ဆောင် ကျောက်ကမ်းပါးများတွင် လှည့်လည် သီတင်းသုံးနေသည့် အချိန်ပင်ဖြစ်လေသည်။ တစ်ခါတစ်ရံ ဆည်မြောင်းလုပ်သားများထံ ဆွမ်းခံဘုဉ်းပေး၍ တစ်ခါတရံ အနီးအပါးရှိ သဖန်း၊ ကျောင်းကုန်း၊ ဆည်ရွာ၊ သရက်ကန်၊ တောင်ညိုကုန်း စသောရွာများသို့ ကြွရောက်၍ ဆွမ်းခံဘုဉ်းပေးတော်မူသည်။ ထိုအချိန်တွင်ဆရာတော်ကြီး၏ တရားထူးကျင့်ရာ နေရာများမှာ -

ဆွမ်းကိစ္စပြီးသောအခါတွင် ဆရာတော်ကြီးသည် မိမိ၏ သစ်ပင်ချုံပုတ်နှင့် ကျောက်ဆောင် ကျောက်ကမ်းပါးကျောင်းများ၌ ပြန်လည် သီတင်းသုံးနေထိုင်တော်မူခဲ့လေသည်ဟူ၍ သိရှိရပါသည်။

(ကျမ်းကိုး၊ ဦးအောင်မွန်၊ ကျေးဇူးရှင် တောင်ပုလု ကမ္ဘာအေး ဆရာတော်ကြီး၊ ရတနာမွန် မဂ္ဂဇင်း၊ ၁၉၈၇ ခုနှစ်၊ ဧပြီလ၊ စာ ၁၀)



## ထိုင်လျက် ကျိန်းတော်မူခြင်း

ထိုအချိန်တွင် ဆရာတော်သည် တောင်ပုလုတောင်၏ အနီးတစ်ဝိုက်တွင် ဝိပဿနာဖြင့် သစ္စာတရားကို ရှာကြံလျက်ရှိခဲ့လေသည်။ ထိုအချိန်က ဆည်တော်ကြီးဆောက်လုပ်ရာတွင် အထူးတာဝန်ကျသော မိတ္ထီလာဆရာထီနှင့် ဆည်မြောင်းဌာန ကုန်ဗိုလ်ဦးစံငြိမ်းတို့သည် ကျောက်ဆောင် ကျောက်ကမ်းပါးနှင့် သစ်ပင်ကောင်းကောင်းတို့ကို ကျောင်းအဖြစ် သီတင်းသုံး၍ ခုတင်နှင့် ဝိပဿနာများကို ကျင့်ကြံကြိုးကုတ် အားထုတ်လျက်ရှိကြသော ဆရာတော်နှင့် တပည့်တို့အား လျှောက်ထားတောင်းပန်၍ ကပ်မိုးကပ်ကာ ကျောင်းကလေးတစ်ဆောင်ကို ဆောက်လုပ်လှူဒါန်းနိုင်ခွင့်ရရှိလေသည်။ ၎င်းကျောင်းကလေးသည်ကား နောင်တစ်ချိန်တွင် တောင်ပုလုရိပ်သာဟူ၍ ဖြစ်လာလေသည်။

> ထိုအချိန်မှစ၍ ဆရာတော်သည် တောင်ပုလုတောရ ဆရာတော်အမည်ဖြင့် အရပ်လေးမျက်နှာသို့ ပျံ့နှံ့ကျော်ကြားခဲ့လေသည်။
>
> ဆရာတော်သည် ကပ်မိုးကပ်ကာ ကျောင်းကလေးတွင် နေသဒ္ဓိကခုတင်ကျင့်ဝတ်အရ ထိုင်လျက်သာ ကျိန်းစက်တော်မူခဲ့ရာ ဖူးမြော်လာသူ ဒါယကာဒါယိကာမများအနေဖြင့် ဆရာတော်ကြီး ကျိန်းစက်တော်မူရာနေရာကို ရှာမတွေ့ဖြစ်နေသည်ဟု အံ့ဖွယ်သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၄)

ထိုသို့ ဆရာတော်ကြီး ထိုင်လျက် ကျိန်းစက်သည်ကို အချို့ ဒါယကာများက အယုံအကြည်မရှိခဲ့ကြချေဟု ဆိုကြပါသည်။ သို့သော်လည်း နောင်သောအခါ ယုံကြည်သွားကြပါသည်။

> အယုံအကြည်မရှိသော ဒါယကာအချို့သည် ဆရာတော်ကြီး ကျိန်းစက်ပုံကို ညဉ့်နက်သန်းခေါင်လွဲ အမှတ်မထင် ချောင်းကြည့်ခဲ့ကြရာ ဆရာတော်ကြီးထိုင်လျက် ကျိန်းစက်သည်ကိုပင် ကြည်ညိုဖွယ်ရာ ဖူးတွေ့ရမြဲဖြစ်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၄ )

## ကမ္ဘာအေးဆရာတော်ဟု ကျော်ကြားလာခြင်း

ကမ္ဘာအေးဆရာတော်ဟု ကျော်ကြားလာခြင်းမှာ တောင်ပုလုတောင်ထိပ်ရှိ ကမ္ဘာအေးဘုရားတည်ချိန်မှစခဲ့လေသည်ဟုသိရပါသည်။ ထိုအခါမှစ၍ ကမ္ဘာအေးဆရာတော်ဟု ကျော်ကြားလာသည်ဟု ဆိုပါသည်။ ကမ္ဘာအေး ထီးတော်တင်ပွဲနှင့် တောင်ပုလုဆည်ဖွင့်ပွဲ တိုက်ဆိုင်ပုံကို အောက်ပါအတိုင်း လေ့လာတွေ့ရှိရပါသည်။

၁၉၅၃ — အေဒီ ၁၉၅၃ ခု (သက္ကရာဇ် ၁၃၁၅ ခုနှစ်)တွင် တပည့်သံဃာ ၃၂ ပါးနှင့်အတူ မိတ္ထီလာ ဆရာထီနှင့် ကန်ဗိုလ် ဦးစံငြိမ်းတို့၏ လျှောက်ထားတောင်းပန်ချက်အရ တောင်ပုလုတောင်ထိပ်တွင် ကိန်းဝပ်စံပယ်တော်မူမည့် ကမ္ဘာအေးစေတီတော်ကို အုတ်မြစ်ချပေးတော်မူခဲ့လေသည်။

၁၉၅၃ — ဤသို့ဖြင့် အေဒီ ၁၉၅၃ ခု (၁၃၁၅ ခုနှစ်) အတွင်းမှာပင် တောင်ပုလုဆည်ဖွင့်ပွဲနှင့် ကမ္ဘာအေး ဘုရားကြီး ထီးတော်တင်ပွဲကို တစ်ပြိုင်တည်း ပူးတွဲကျင်းပနိုင်ခဲ့ပေသည်။ ထိုအချိန်မှစ၍ ဆရာတော်ကြီးသည် တောင်ပုလုတောရ ကမ္ဘာအေးဆရာတော်ဟူသော အမည်နာမတော်ဖြင့်လည်း နိုင်ငံတစ်ဝန်းလုံးတွင် ထပ်ဆင့်ကျော်ကြားလာခဲ့ရပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၄ )

## ရိပ်သာအတွင်းပြောင်းရွှေ့စံခြင်း



၁၉၅၄-၅၅ ဆရာတော်ဘုရားကြီးသည် မိတ္ထီလာဆရာထီနှင့် ကန်ပိုလ် ဦးစံငြိမ်းတို့ ဆောက်လုပ်လှူဒါန်းသော တောင်ဘက် မူလ စင်္ကြံကျောင်းတော်တွင် အေဒီ ၁၉၅၄ ခု (သက္ကရာဇ် ၁၃၁၆ ခုနှစ်)အထိ သီတင်းသုံးပြီး အေဒီ ၁၉၅၅ ခု (၁၃၁၇ ခုနှစ်)မှစ၍ မြောက်ဘက် စင်္ကြံကျောင်းတော်သို့ ရွှေ့ပြောင်းသီတင်းသုံးလျက်ရှိလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၄ )

ဆရာတော်ကြီးသည် တောင်ပုလု ကမ္မဋ္ဌာန်းအေးရိပ်သာတွင် တရားအားထုတ်လိုသူများကို ရဟန်းဝတ်များဖြင့်သာ တရားအားထုတ်စေလေသည်။ သထုံ ဇေတဝန်ဆရာတော်ကြီး၏ နည်းနာ နယအတိုင်း တရားအားထုတ်လိုသော ရဟန်းတော်များသည် ပါတိမောက်ရ,ရမည်၊ ဆွမ်းခံဘုဉ်းပေးရမည်၊ မကြာမကြာ ဝတ်ဆောက်တည်ရမည်ဟု စည်းကမ်းသတ်မှတ်ထားလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅ )

## ကမ္ဘာ့သာသနာ ပြုတော်မူခြင်း

ကျေးဇူးရှင် တောင်ပုလုတောရ ကမ္မဋ္ဌာန်းအေးဆရာတော်ကြီးသည် အမေရိကန်နိုင်ငံ ဆန်ဖရန်စစ္စကိုမြို့ ကာလီဖိုးနီးယား တက္ကသိုလ် ပါမောက္ခ ဒေါက်တာရီနာဆာကာ အမှူးပြုသော ဗုဒ္ဓဘာသာ အမေရိကန် တပည့် ဒါယကာ ဒါယိကာမတို့၏ ပင့်ဖိတ်လျှောက်ထားချက်အရ အမေရိကန် နိုင်ငံတွင် ၃ လနှင့် ၂၀ ရက်ကြာမျှ သာသနာပြုခဲ့၍ အိန္ဒိယနိုင်ငံတွင် ၁ လနှင့် ၁၅ ရက်ကြာမျှ သာသနာပြုခဲ့လေသည်။

ထိုအချိန်အတွင်း အမေရိကန်တွင် ရဟန်းတော် ၄၅ ပါး၊ သာမဏေ ၅ပါး၊ ရသေ့မ ယောဂီ ၃၀ ကျော်နှင့် သရဏဂုံ သီလတည်ကြ၍ ထေရဝါဒဗုဒ္ဓဘာသာသို့ ဝင်ခဲ့သော ယောဂီ ၈၀ ကျော်ရှိခဲ့လေသည်။

အိန္ဒိယနိုင်ငံတွင်လည်း ရဟန်းတော် ၁၄ ပါး၊ သာမဏေ ၁၂ ပါး၊ သရဏဂုံ သီလတည်ကြ၍ ထေရဝါဒ ဗုဒ္ဓဘာသာသို့ ဝင်ရောက်ခဲ့သော ယောဂီ ၃၀၀ ကျော်ရှိခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၅ )

အမေရိကန်ပြည်ထောင်စုသို့ ၄ ကြိမ် ကြွတော်မူပါသည်။

၁၉၇၈ ခု ဩဂုတ်လ ၁ ရက်တွင် ပထမဦးဆုံးအကြိမ်အဖြစ် ကြွတော်မူပါသည်။

၁၉၇၉ ခု ဇန်နဝါရီလ ၂ ရက်တွင် မြန်မာနိုင်ငံသို့ ပြန်လည်ရောက်ရှိပါသည်။ ယိုးဒယားမှကြွ၍အပြန်တွင် အိန္ဒိယသို့ဝင်ပါသည်။

ဒုတိယအကြိမ်မှာ ၁၉၈၁ ခု ဧပြီလ ၂၅ ရက်တွင် ကြွတော်မူ၍ ၁၉၈၂ ခု၊ မတ်လ ၆ ရက် နေ့တွင် ပြန်လည်ရောက်ရှိတော်မူပါသည်။

ဤအခေါက်၌ ဟောင်ကောင်၊ ဂျပန်၊ စသည်မှာ ခေတ္တနားပါသည်။

တတိယအကြိမ်မှာ ၁၉၈၃ ခု ဧပြီလ ၉ ရက်နေ့တွင်ကြွ၍ ၁၉၈၃ ခု နိုဝင်ဘာလ ၂၅ ရက်နေ့တွင် ပြန်လည်ရောက်ရှိတော်မူပါသည်။



စတုတ္ထအကြိမ်မှာ ၁၉၈၅ ခုနှစ် ဧပြီလ ၁၁ ရက်နေ့တွင်ကြွ၍ ၁၉၈၆ ခု ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် ပြန်လည်ရောက်ရှိလာသည်။

(ကျမ်းကိုး၊ ဦးအောင်မွန်၊ ကျေးဇူးရှင် တောင်ပုလု ကမ္ဘာအေး ဆရာတော်ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ ၁၉၈၇ ခုနှစ်၊ ဧပြီလ၊ စာ ၁၅-၁၆ )

## ထူးခြားသော သတင်းများ

ပထမအကြိမ် အမေရိကန်၌ ဆရာတော်ကြီး သာသနာပြုတော်မူပြီး ချိန်တွင် အမေရိကန်၌လည်းကောင်း၊ မြန်မာနိုင်ငံ၌လည်းကောင်း ဆရာတော်ကြီးနှင့်စပ်၍ ထူးခြားသော သတင်းစကားများ ပျံ့နှံ့ခဲ့ပေသေးသည်။ ထိုသတင်းတို့မှာ အခြားမဟုတ်။

ဒကာဦးထင်ပေါ်၏အိမ်၌ ဆရာတော်ကြီး တရားချီးမြှင့်ပေးတော်မူစဉ် သမင်ကြီးတစ်ကောင်သည် အိမ်ဝ၌ လာရပ်နေသည်ကို မြင်တွေ့ရကြောင်း သတင်းပင်ဖြစ်သည်။ ဦးထင်ပေါ်က ဆရာတော်ကြီးအား တပည့်တော်များရဲ့ အိမ်ပေါက်ဝမှာ ခြေရာများပင် ထင်ကျန်ရစ်ပါတယ်။ မြို့သူမြို့သားများ ဝိုင်းလိုက်ကြလို့ သမင်ကြီးထွက်ပြေးပျောက်ကွယ်သွားပါတယ် ဘုရားဟု လျှောက်ထားခဲ့ပါသည်။ ထိုအရပ်၌ သားကောင်အလွန်ရှားပါးသဖြင့် ဤဖြစ်ရပ်ကို အလွန်ထူးဆန်းသော ဖြစ်ရပ်ဟု သတင်းဖြစ်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈)

တစ်ဖန် ကျေးဇူးရှင် ဆရာတော်ကြီးနှင့်အဖွဲ့သည် ဆန်ဖရန်စစ္စကိုမှ လော့အိန်ဂျယ်လိစ်သို့ လေယာဉ်ဖြင့်ကြွရာတွင် လေယာဉ်မှူးသည် ဘီးချမရဘဲ အခက်အခဲဖြစ်နေစဉ်၌ သူ၏မျက်စိတွင် ဆရာတော်ကြီးအား ဖူးမြင်လိုက်ရသည်ဟု ထင်မိပြီးမှ ဘီးချ၍ရသွားသော သတင်းမှာလည်း အထူးပျံ့နှံ့ပြီး ဖြစ်ပါသည်။

(ကျမ်းကိုး၊ ဦးအောင်မွန်၊ ယင်းကျမ်း ၁၉၈၇ ခုနှစ်၊ ဧပြီလ၊ စာ ၁၈)

တစ်ဖန် ဆရာတော်ကြီး အိန္ဒိယသို့ ခရီးရောက်မဆိုက်မီပင် အိန္ဒိယနိုင်ငံရှိ ဗုဒ္ဓဘာသာသူတော်စင်တို့က ဆရာတော်ကြီးမကြွလာမီအတွင်း တပည့်တော်များ အိန္ဒိယနိုင်ငံ မဟာဗောဓိစေတီတော်၏ အလယ်ကောင်းကင်ယံတွင် ပြောင်ပြောင်ဝင်းဝင်း အရာ ဝတ္ထုကြီးတစ်ခုကို တွေ့မြင်ကြရပါသည်။ ထိုအရာဝတ္ထုသည် အိန္ဒိယနိုင်ငံသို့ ဆရာတော်ကြီး ကြွချီတော်မူလာခြင်း၏ အရိပ်နိမိတ်ပင် ဖြစ်ပေလိမ့်မည်ဟု သဒ္ဒါပိုမို လျှောက်ထားခံတော်မူရခြင်း သတင်းပင်ဖြစ်ပါသည်။

(ကျမ်းကိုး၊ ဦးအောင်မွန်၊ ယင်းကျမ်း ၁၉၈၇ ခုနှစ်၊ ဧပြီလ၊ စာ ၁၈)

၁၉၈၁ ယခုအခါတွင် တောင်ပုလုတောရ ကမ္ဘာအေး ဆရာတော်ကြီးသည် အမေရိကန်ပြည်ထောင်စုသို့ ဗုဒ္ဓသာသနာ ဖြန့်ချိရန် ၁၉၈၁ ခုနှစ်၊ ဧပြီလ ၂၅ ရက်နေ့က ကြွတော်မူခဲ့လေသည်။

ယင်းသို့သော ဝိသေသ လက္ခဏာရပ်များကြောင့် ဆရာတော်ကြီးသည် 'ကမ္ဘာ့သာသနာပြုကျေးဇူးရှင် တောင်ပုလုတောရ ကမ္ဘာအေးဆရာတော်ဘုရားကြီး'ဟူသော အမည်နာမတော်ဖြင့် ပြည်တွင်းပြည်ပ နှစ်ဌာနလုံးမှာပင် ထင်ပေါ်ကျော်ကြားလျက်ရှိပေသတည်း။

(ကျမ်းကိုး၊ ဦးအောင်တင် ယင်းကျမ်း၊ စာ ၁၆)

## မြမဥ္ဇူ ကျောက်စေတီတော်ကြီး တည်ဆောက်ခြင်း



အနော်ရထာမင်းသည် မိဖုရားစောခင်လှ တည်ထားကိုးကွယ်ခဲ့သော အုတ်ဖြင့် တည်ဆောက်ထားသည့် မြမဥ္ဇူစေတီမှာ နှစ်ပရိစ္ဆေဒကြာပြီဖြစ်သောကြောင့် ပျက်စီးယိုယွင်းလျက်ရှိပါသည်။

ထို့ကြောင့် တောင်ပုလုတောရ ကမ္ဘာအေးဆရာတော်ကြီးက ၎င်းမူလစေတီတော်ကို ငုံ၍ အသစ်တည်ဆောက်ရန် ဆန္ဒပြင်းထန်ခဲ့ပါသည်။ တဲစုရွာတွင် ထိုစေတီကို တည်ခြင်းအားဖြင့် သာသနာတော်တစ်လျှောက်တွင် သတ္တဝါအများ ကိုးကွယ်ပူဇော်ကြသောကြောင့် လူနတ်ဗြဟ္မာ ဘုံသုံးဖြာ ရောက်ရရုံသာမက အမတနိဗ္ဗူသို့ တက်လှမ်းနိုင်မည်ဟု ယုံကြည်တော်မူပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၇)

တောင်ပုလုသာသနာတော်သည် မကြုံစဖူး အောင်မြင်မှုရကြောင်းကို ၁၉၈၁ ခုနှစ် ဖေဖော်ဝါရီလ သင့်ဘဝမဂ္ဂဇင်းတွင် ပြန်လည်ဖတ်ရှုရသောအခါ ထိုအခါက ရုပ်ပုံလွှာသည် ပြန်လည်ပွင့်လင်းလာပြန်လေသည်။ ဖတ်ကြည့်ပါ။

၁၉၈၀ တောင်ပုလု ဆရာတော်ကြီး၏ ဇာတိမြေဖြစ်သော မန္တလေးတိုင်းဒေသကြီး ဝမ်းတွင်းမြို့နယ် တဲစုကျေးရွာတွင် ဉာဏ်တော်(၁၁၁)တောင်ကျော်မြင့်သည့် မြမဥ္ဇူကျောက် စေတီ တော်ကြီးကို အေဒီ ၁၉၈၀ ခု၊ နိုဝင်ဘာလ ၂၈ ရက်၊ စနေနေ့ (၁၃၄၂ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်နေ့)က ထူးကဲကြီးကျယ်ခမ်းနား သိုက်မြိုက်စွာ လူထု သုံးသိန်းကျော် ရှေ့မှောက်တွင် ငွေထီးတော်ကြီးကို အောင်မြင်စွာ အလှူတင် လိုက်လေပြီ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၄ ၊ ဦးချမ်းသာ၊ လက်ဝဲ မင်းညို၊ မကြုံစဖူး အောင်မြင်မှု၊ တောင်ပုလုသာသနာ၊ သင့်ဘဝ မဂ္ဂဇင်း၊ ၁၉၈၁ ခု၊ ဖေဖော်ဝါရီလ၊)

ရွှေတိဂုံစေတီတော်ကြီး၏ ပုံတော်အချိုးအစားအတိုင်း တစ်သဝေမတိမ်း တည်ထားခြင်းကြောင့် ၁၉၇၉ ခုနှစ် စက်တင်ဘာလထုတ် သင့်ဘဝမဂ္ဂဇင်းတွင် 'တဲစု ရွှေတိဂုံ'ဟု တင်စားကာ မှတ်တမ်းတင်ခဲ့သည့် ကျောက်စေတီကို ယခု တောင်ပုလုဆရာတော်ကြီး အမှူးပြုသည့် လူပရိသတ်က မြမဥ္ဇူကျောက်စေတီတော်ကြီးဟု ဘွဲ့တော်တပ်လိုက်လေပြီ။ မြမဥ္ဇူစေတီတော်ကြီး၏ ဉာဏ်တော်မှာ ရွှေတိဂုံစေတီတော်ကြီး ဉာဏ်တော်အမြင့်၏ ထက်ဝက်ကျော်ဖြစ်သည်။

ထီးတင်ပွဲ၊ အနေကဇာတင်ပွဲ၊ ဌာပနာတိုက် ပိတ်သည့်ပွဲတော်ကြီးပေါင်း (၃)ရပ်ကို လပြည့်ကျော် ၂ ရက်အထိ ၃ ရက် တိုင်တိုင်ကျင်းပရာ မဟာသက်တော်ရှည် အဂ္ဂမဟာပဏ္ဍိတ ရွှေကျင်သာသနာပိုင် ဆရာတော်ကြီး ဦးဇောတိကာဘိဝံသ၊ အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ကြီးများဖြစ်သော စစ်ကိုင်း ရွှေဟသ်ာဆရာတော်ကြီး ဦးပဏ္ဍိတသိရီနှင့် ရွှေမန်း မစိုးရိမ်ပဋ္ဌာန်းဆရာတော်ကြီး ဦးဝိသုဒ္ဓ၊ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ ဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ပဲခူးမြို့မ ဆရာတော်ကြီး ဦးကုဏ္ဍလာစာရ၊ ၎င်းအဖွဲ့ အကျိုးတော်ဆောင် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသ၊ အဂ္ဂမဟာပဏ္ဍိတများဖြစ်ကြသော မဟာစည်ဆရာတော် ဦးသောဘန၊ မြင်းခြံကိုးဆောင် ဆရာတော် ဦးသောဘိတ၊ အခြားထေရ်ကြီး ဝါကြီး ဆရာတော်များနှင့် ပခုက္ကူ တိပိဋကဆရာတော် ဦးနေမိန္ဒ ရန်ကုန်မှ တိပိဋက ဆရာတော် ဦးသုမင်္ဂလာလင်္ကာရနှင့် ဦးကောသလ္လတို့သည် တိုင်းနှင့် မြို့နယ်ကောင်စီများ၏ အကူအညီဖြင့် ကြွရောက်လာကြကာ တောင်ပုလု ဆရာတော်ဘုရားကြီး၏ ဗုဒ္ဓသာသနာ ဒုတိယ မဟာမော်ကွန်းတိုင်ကြီးကို သာသနာ့တန်ဆောင် သာသနာ့ဥဩဇာင် သာသနာ့မှန်ကင်းများအနေဖြင့် ဝိုင်းဝန်းကာ စိုက်ထူလိုက်ကြလေပြီ။

ဤမျှကြီးကျယ်ခမ်းနားစွာ ကျင်းပရာတွင် မကြုံစဖူးလောက်အောင် မြန်မာပြည် အရပ်ရပ်က



လာကြသော ပရိသတ်ကြီး၏ ကြီးမားမှုကို မဟာစည်ဆရာတော်ကြီးက (၃)ကြိမ်တိုင်တိုင် တရားပလ္လင်မှ နေ၍ ဥဒါန်းကျူးသည်။

တိုင်းရင်းသား မြန်မာ ဗုဒ္ဓဘာသာများသာမက ပြည်ထောင်စု အရပ်ရပ်မှ ရှမ်း၊ ကချင်၊ ကယား၊ မွန်၊ ကရင်၊ ရခိုင်၊ ချင်း မှစ၍ တိုင်းရင်းသား ဗုဒ္ဓဘာသာဝင် သူတော်စင်တို့လည်း များလှလေစွ။ ကယား၊ ပလောင်၊ ရှမ်း၊ လီဆူးတို့က လှပတောက်ပြောင်စွာ ဝတ်ဆင်ပြီး ငွေဘယက်များ တချွင်ချွင်နှင့် ငွေပဒေသာပင်များကို ကိုင်ဆောင်ကာ မြမဥ္ဇူ စေတီတော်ကြီးကို လှည့်ပတ်၍ ပူဇော်ခြင်းမှာ အလွန် ကြည်နူးဖွယ်ပင်ကောင်းသော မြင်ကွင်းဖြစ်ပေသည်။

မိုးကုတ်မှ လီဆူး အမျိုးသမီးများက လှပစွာဝတ်ဆင်ပြီး၊ ညဦးအခါ မီးရောင်စုံကိုင်ဆောင်ကာ မီးပူဇော်ကြခြင်း မှာလည်း ရှုမခန်းပင်၊ ရမည်းသင်းက တရုတ်နဂါးနှင့် ဆင်တို့ကလည်း စေတီတော်ကြီးကို အကြိမ်ပေါင်းများစွာ လှည့်ပတ် ကန်တော့ ပူဇော်ကြခြင်းလည်း ထူးခြားချက် တစ်ရပ်ပင်ဟု တွေးဆ နိုင်ပါသည်။

ထိုထက်ပင် တောင်ပုလု ဆရာတော်ကြီး၏ ဓုတင်ဆောင် ကျင့်သုံးမှုတွင် စံပြဖြစ်သော ပခုက္ကူ ဆရာတော်နှင့် နောက်ပါ တပည့်သံဃာဖြစ်ကြသည့် အမေရိကန်၊ ဂျာမန်၊ ဩစတြေးလျ၊ မျက်နှာဖြူ လူမျိုးတို့က ဓုတင်ဆောင်ကာ ရဟန်းအလုပ်ကို လက်ပူးလက်ကြပ် လက်တွေ့သင်တန်းဆင်းပြီး လေ့လာ အားထုတ်နေကြသော ရဟန်းတော်များနှင့် အမေရိကန်ပြည်ထောင်စု ဆန်ဖရန်စစ္စကို၊ တောင်ပုလု သာသနာပြုအဖွဲ့ ဥက္ကဋ္ဌ ဒေါက်တာရီနာဆာကား အမှူးပြုကာ အမေရိကန်အမျိုးသမီး သီလရှင်များနှင့် ယောဂီများကို ဝိနည်းတော်နှင့်အညီ တွေ့မြင်ရခြင်းသည်လည်း ဝမ်းသာမဆုံး ဖြစ်ရသည်။

ကမ္ဘာ့သာသနာပြု တောင်ပုလုဆရာတော်ကြီး၏ ကမ္ဘာ့သာသနာပြုလုပ်ငန်းတွင် ရှေးဦးထွက် မီးရှူးတန်ဆောင် အောင်မြင်မှုဟု မုချ ဆိုနိုင်သည်။ အလွန်အံ့ဩဖွယ် ကောင်းလေစွ၊ အသက် (၇၅)နှစ် မျက်မမြင် ကုသိုလ်ရှင်မကြီး သဲတောမှ ဒေါ်အေးညွှန့်၏ ဒါနလုပ်ငန်းလည်း မှတ်တမ်းတင် သာဓု ခေါ်ထိုက်ပေသည်။ အသက်မသေခင် စားသုံးရန် (သုံးထောင်ကျပ်)ကိုသာ ချန်၍ ရွှေလက်စွပ်များ၊ ငွေများ၊ အဝတ်အစားများ၊ ပန်းများ၊ သစ်သီးများ၊ တစ်သောင်း ငါးထောင်ကျော်ဖိုးကို မိုး(၅)မျိုးသော ရွာသောသဘောဖြင့် စေတီတော်ပေါ်က အောက်သို့ ရွာချသည့် ကာလ ဒါနသဒ္ဓါတရား အပြည့်အဝနှင့် စွန့်ကြဲမှုမှာလည်း အံ့ဩလောက်ပေစွ။

ထီးတင်ပွဲ၊ ဘုရားပွဲများတွင် ဇာတ်၊ ရုပ်သေး၊ ရုပ်ရှင်၊ လက်ဝှေ့ပွဲ စသည်တို့မှာ သမားရိုးကျ ပါဝင်မြဲဖြစ်၍ မဆန်းလှပေ။ သို့သော် မြမဥ္ဇူစေတီတော် သမိုင်းဇာတ်လမ်းကို ဦးကေသဝကရေးသား၍ အေဝမ်းဦးတင်မောင် - ဒေါ်တင်တင် အမှူးပြုသော ရုပ်ရှင်နှင့်ဂီတ ဒါရိုက်တာ ဘိုကလေးတင့်အောင်နှင့် ဂီတလုလင်မောင်ကိုကိုတို့က ဦးဆောင်စိစစ်ပြီး၊ အဆိုတော်မောင်မောင်ကြီး၊ မောင်သိန်းဝင်း၊ တင်တင်မြ၊ အေဝမ်း တင်တင်လှ၊ ထား၊ စိန်စိန်မြိုင်၊ အမာချို၊ ခနေဖြူညွှန့်ညွှန့်ရွှေ သရုပ်ဆောင် ရန်နိုင်စိန်၊ အင်းယား၊ ကန်တော်ကြီး လေးဒေါင့်အဝိုင်း၊ စွပ်ပရား၊ လျှောင်ကီး၊ ရေဝန်တို့က သီဆိုအသုံးတော် ခံကြလျက်၊ ရွှာစား စိန်ဗိုလ်တင့်နှင့် ဝိုင်းတော်သားများက ဆိုင်းဝိုင်းတို့ဖြင့် ကုသိုလ်ပြုကာ၊ ဟသ်ာတေးသံသွင်းမှ ဦးဟန်သိန်းနှင့် ဦးတင်အေးတို့က အသံဖမ်းပညာဖြင့် ပူဇော်ကန်တော့ကာ ဒါနပြုကြသည်ကို တွေ့ရ၍ သာဓုခေါ်ရတော့သည်။ ချီးမွမ်းထိုက်လှပေစွ။

လပြည့်ကျော် (၂) ရက်အတွင်းကား ပွဲတော်ကြီးသုံးရပ်တို့၏ နောက်ဆုံးနေ့ဖြစ်သည်။ နံနက် (၈)နာရီခွဲလောက်တွင် ရွှေတိဂုံစေတီတော်၏ 'ညီတော်ကြီး'ဟုပင် ခေါ်ထိုက်သည့် မြမဥ္ဇူကျောက် စေတီတော်ကြီး မြောက်ဘက်မျက်နှာ ခြေတော်ရင်းတွင် တောင်ပုလု ကမ္ဘာ့အေးဆရာတော်ကြီး အမှူးပြုသော သာသနာမဟာထေရ်ကျော် ဇာနည်မော် တစ်ရာကျော်တို့က စုံညီစွာ ဥပုသ်နာပစ္စည်းမျိုးစုံကို



ရှေ့မှာတင်ထားပြီး အနေကဇာတင်ခြင်းကိစ္စ ပရိတ်တော်ရွတ်ဖတ်ခြင်း မေတ္တာပို့ခြင်း၊ ကိစ္စတို့ကို ဆောင်ရွက်ပြီး စေသည်။ ဆရာတော်ကြီးများကို ထီးတော်များမိုးကာ လှပသစ်လွင်သော မဏ္ဍပ်ကြီးများသို့ နေ့ဆွမ်းအလို့ငှာ ၉ နာရီခွဲလောက်တွင် ဆရာထိရှေ့ဆောင်၍ ပင့်သွားကြသောအခါမှစ၍ ခေါင်းလောင်းပုံတွင် အသစ်မွမ်းမံပြင်ဆင် ခိုင်ခံ့စွာပြုလုပ်ထားပြီးဖြစ်သော ဌာပနာတိုက်ခန်းသို့ ဌာပနာများကို အတိတ်နိမိတ် ကောင်းသော အမည်များပါသည့် ရန်ကုန်၊ မိတ္ထီလာ၊ ဝမ်းတွင်းတဲစုမှ အလှူရှင်များ အဖွဲ့ဝင်များ အမှုဆောင်များက ဌာပနာပစ္စည်းများကို လက်ဆင့်ကမ်းကာ အဆင့်ဆင့် တင်ပို့ရန်စီစဉ်တော့သည်။ ပါတီ၊ ကောင်စီ၊ ကြက်ခြေနီ၊ လူငယ်၊ လုံခြုံရေး စသည်များကလည်း အထူးဝတ္တရားအနေဖြင့် ကျရာနေရာက တညီတညွတ်တည်း ကျေပွန်စွာဆောင်ရွက်ကြသည်။

ဌာပနာတင်ပို့ခြင်း ကိစ္စမှာ (၁၁)နာရီခွဲလောက်မှာ ပြီးဆုံး၍ တောင်ပုလုအဖွဲ့၏ ဒု - ဥက္ကဋ္ဌ ဦးပဋ္ဌင်းကြီး ဦးဘသင်က ဦးဆောင်ကြပ်မတ်ပြီး၊ သံမဏိ၊ သံချောင်း၊ ကွန်ကရစ်၊ ဘိလပ်မြေ စသည်ဖြင့် သုံးထပ် ခိုင်လုံစွာပိတ်ခြင်းကိစ္စကို နေမဝင်မီ အပြီးအစီး ဆောင်ရွက်သင့်တော့သည်။

ပွဲတော်ကြီး၏ ထူးခြားချက်အချို့ကို ဤသို့ တွေ့ရသည်။ (၁) စစ်ပြီးခေတ်တွင် ကျောက်ဖြင့် တည်ဆောက်သော အကြီးဆုံးစေတီဖြစ်ခြင်း၊ (၂) ရွှေတိဂုံစေတီတော်ကြီးနှင့် အလွန်တူခြင်းကြောင့် နောင်တော်ကြီးရှိသကဲ့သို့ 'ညီတော်ကြီး'ဟုပင် မှတ်ယူနိုင်ခြင်း၊ (၃) မြန်မာပြည်အရပ်ရပ်ထက်အောက် ဗိလာမှ ကုသိုလ်ရှင်များပါဝင်ကြပြီး မကြုံဖူးမမြင်ဖူးသည့် လူမျိုးပေါင်းစုံ ပရိသတ်လာရောက်ဖူးမြော် ကြသည့် ပွဲကြီးဖြစ်ခြင်း၊ (၄) နိုင်ငံခြားသားမျက်နှာဖြူ ရဟန်းသံဃာနှင့် သီလရှင်ယောဂီများ ပါဝင်တက် ရောက်ပူဇော်ကြခြင်း၊ (၅) ကျီးမတွေ့ရခြင်း၊ (၆) ဤမျှကြီးမားသော ပရိသတ်အတွင်း ဘာမျှ တစ်စုံတစ်ခု မဖြစ်ခြင်း၊ (၇) ထမင်းရေချောင်းစီး၊ ဆန်တင်းတစ်ထောင်ကို နေ့ည ရေမီးမပြတ် ချက်ပြုတ်ကျွေးမွေးခြင်း၊ (၈) မြမဥ္ဇူဘုရားနှင့် ကိုက်ညီစွာ၊ ဌာပနာပစ္စည်းများသင်းကျစ်၊ နားပန်၊ ရွှေမကိုဋ်နှင့်တစ်ဆူကိုတွေ့ရခြင်း၊ (၉) ဌာပနာပစ္စည်းမျိုးစုံမှာ မရေမတွက်နိုင်အောင် များပြားလှခြင်း၊ (၁၀) ထိုပစ္စည်းအရပ်ရပ်တို့၏ တန်ဖိုးကိုလည်း မဖြတ်စွမ်းနိုင်ခြင်း၊ (၁၁) ထိုထက်ပင် ရာကျော်သာသနာဇာနည်မော် မဟာထေရ် ဆရာတော်ကြီးများတို့ ကြွရောက်၍ တောင်ပုလုကမ္ဘာအေး ဆရာတော်ကြီး၏ ဒုတိယ သာသနာ့မဟာ မော်ကွန်းတိုင်ကြီးကို အောင်မြင်စွာ တညီတညွတ်တည်း စိုက်ထူလိုက်ကြခြင်းကို အထူးဆုံးဟု ဆိုနိုင်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၄ ၊ ဦးချမ်းသာ၊ လက်ဝဲ မင်းညို၊ မကြုံစဖူး အောင်မြင်မှု၊ တောင်ပုလုသာသနာ၊ သင့်ဘဝ မဂ္ဂဇင်း၊ ၁၉၈၁ ခု၊ ဖေဖော်ဝါရီလ၊ စာ ၇၈ )

(ကျမ်းကိုး၊ ဦးအောင်မွန်၊ ကျေးဇူးရှင် တောင်ပုလု ကမ္ဘာအေး ဆရာတော်ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ ၁၉၈၇ ခုနှစ်၊ ဧပြီလ၊ စာ ၄၉-၅၀ )

၁၉၈၅ ဆရာတော်ဘုရားကြီးသည် သက်တော် ၉၀ နှစ်၊ သိက္ခာတော် ၇၀ ဝါ၊ အေဒီ ၁၉၈၅ ခု၊ မေလ ၁၈ ရက်၊ (သက္ကရာဇ် ၁၃၄၈ ခု၊ ကဆုန်လကွယ်) စနေနေ့ နံနက် ၈ နာရီ ၄ မိနစ်တွင် အမှတ် ၇၀ တက္ကသိုလ်ရိပ်သာလမ်း၊ တောင်ပုလု ဆုတောင်းပြည့် ကျောင်းတိုက်၌ ခန္ဓာဝန်ချတော်မူ၏။

❀ ❀ ❀

မင်းဘူးမြို့နယ်၊ နန်းတော်ကုန်းရွာ အံ့ဖွယ်ထူးခြားသော ရုပ်ကလာပ်တော်

# ဆရာတော် ဦးနန္ဒိယ

အေဒီ ၁၈၉၆ – ၁၉၈၂ (၁၂၅၈ – ၁၃၄၄)







ဖျံလွန်တော်မူပြီး မပုပ်မသိုး စံနေတော်မူသည့် အံ့ဖွယ်ထူးကဲ ရုပ်ကလာပ်တော်အား မကွေးတိုင်းဒေသကြီး၊ မင်းဘူးမြို့နယ်၊ နန်းတော်ကုန်းရွာ၊ ရွှေဂူလိုဏ်ဘုရား ကုန်းတော်ပေါ်၌ တွေ့ရှိခဲ့ရသည်။

ရုပ်ကလာပ်တော် နန်းတော်ကုန်းရွာ သာသနာ့ နုဂ္ဂဟကျောင်းတော်မှ ဆရာတော် ဦးနန္ဒိယ သက်တော် ၈၆ နှစ် သိက္ခာတော် ၆၆ ဝါ၏ ရုပ်ကလာပ်တော် ဖြစ်ပေသည်။ ဆရာတော် သက်ရှိထင်ရှားရှိစဉ်အခါက ဝိပဿနာအလုပ်နှင့်သာ မွေ့လျော်သူဖြစ်ပြီး တရားဓမ္မနှင့် သက်ဆိုင်သော စကားမှအပ မည်သည့်အကြောင်းအကျိုး လောကီကိစ္စများကိုမျှ မပြောဆိုခဲ့ပါဟု ဆိုပါသည်။

ဒါယကာ၊ ဒါယိကာမများ လှူဒါန်းထားသော နှစ်ထပ်တိုက် ကျောင်းတော်ကြီးများရှိပါလျက် တစ်နှစ်တစ်ခါ ဝါဆိုချိန်နှင့် ဆရာတော်၏ မွေးနေ့အလှူ လုပ်သည့်အခါမှ ခေတ္တ သီတင်းသုံးပြီး အချိန်ရှိသမျှ ထန်းရွက်တဲကျောင်းလေးနှင့်သာ တရားအားထုတ်တော်မူခဲ့သည်ဟု သိရပါသည်။

၁၉၈၃ ဆရာတော်မှာ ၁၉၈၃ ခု၊ ဇန်နဝါရီလ ၁၂ ရက်၊ (၁၃၄၄ ခုနှစ် နတ်တော်လဆုတ် ၁၃ ရက်) နံနက် ၁၀ နာရီတွင် မိမိစံရာကျောင်းတော်၌ပင် ခန္ဓာဝန်ချတော်မူသည်ဟု သိရှိရပါသည်။ သည့်ထက် ပို၍မသိရပါ။

(ကျမ်းကိုး။ နေလဂျာနယ်၊ ၁၃၃၆ ခု၊ တပို့တွဲလဆုတ် ၉ ရက်၊ စာမျက်နှာ ၁၃။)

ဂူထဲတွင် လူမသိသူမသိ နှစ်ပေါင်း ၅၀ ကျော် သီတင်းသုံးတော်မူပြီးနောက်

ခန္ဓာဝန်ချသောအခါမှ ဓာတ်တော်များကျတော်မူသဖြင့်

ရဟန္တာဟု နောက်ကျစွာ ကြည်ညိုခဲ့ရသော ဂူအောင်းဆရာတော်

# ကျပ်ကန်ဆရာတော်

အေဒီ ၁၈၉၆ – ၁၉၈၇ ( ၁၂၅၈ –၁၃၄၉)





ထိုဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်အခါက ဂူအောင်းဆရာတော်ကြီးဟု အများက ခေါ်ဝေါ်ခဲ့ကြပါသည်။ ရဟန္တာဟုလည်း မည်သူမျှကမသိကြပါ။

(ကျမ်းကိုး။ ၁၉၈၆ ခု၊ မတ်လထုတ် မြတ်မင်္ဂလာစာစောင် အတွဲ ၁၊ အမှတ် ၉ တွင် စာရေးဆရာ မောင်ရဲဆိုသူက ဂူအောင်းဆရာတော်ကြီးအကြောင်းကို ရေးသားခဲ့ပါသည်)

သို့သော်လည်း ကျွန်ုပ်တို့ ခေတ်မှာကား မိမိတို့၏ တစ်ထွာတစ်မိုက် ဉာဏ်ကလေးနှင့် ဘယ်သူဘယ်ဝါ ဘာဘာညာညာ မည်သူကမှ မခန့်မှန်းရဲကြသဖြင့်တစ်ကြောင်း၊ မခန့်မှန်းနိုင်ကြသဖြင့်တစ်ကြောင်း ခန္ဓာဝန်ချတော်မူ၍ ဓာတ်တော်များ တဖွားဖွားကျသောအခါမှ ရဟန္တာအရှင်မြတ်ကြီးများဖြစ်ကြောင်း သိရှိကြပါသည်။ ထိုအခါမှ မပူဇော်ခဲ့ရလေခြင်း မသိရလေခြင်းဟု ဝမ်းနည်းကြရပါသည်။

## ဂူအောင်းဆရာတော်ကြီး

ကျပ်ကန်ဆရာတော်ကြီးကို ရှေးက ဂူအောင်းဆရာတော်ကြီးဟုလည်း ခေါ်ကြပါသည်။ ကျပ်ကန်မှာ ရေကန်တစ်ကန်ကို ခေါ်ဆိုခြင်းဖြစ်ပါသည်။ ပုဂံညောင်ဦးမြို့၏ အနောက်တောင်ဘက် ၄ မိုင်လောက်နေရာတွင် နန္ဒာပညာ ဉမင်ဘုရား ဟူ၍ရှိ၏။

၎င်းအပြင် ကျပ်ကန်ဟု ခေါ်သော ရေကန် တစ်ကန်လည်း ရှိပါ၏။ ထိုကန်နှင့် ထိုဘုရားတို့၏ အလယ်ဗဟိုလောက်တွင် လိုဏ်ဂူကြီးတစ်ခု ယနေ့တိုင်ရှိပါသည်။ ထိုဂူကြီးမှာ မြေအောက် ဉမင်လိုဏ်ဂူကြီးဖြစ်၏။ မြေအောက် ဉမင်လိုဏ်ဂူဟု ဆိုရခြင်းမှာလည်း တကယ့်ကို မြေပေါ်မှာမရှိ မြေအောက်မှာသာရှိသောကြောင့်ဖြစ်ပါသည်။ ထို့ကြောင့်လည်း မြေအောက်လိုဏ်ဂူဟု ပြောဆိုရခြင်း ဖြစ်ပါသည်။

## အလောင်းစည်သူလက်ထက်က ဂူ

ထိုလိုဏ်ဂူကြီးမှာ ညီညာသော မြေပြင်၏ အောက်ဘက်ကို ၁၅ ပေ ၁၆ လောက် နက်အောင် တူးဖောက်ထားသည့် လိုဏ်ဂူကြီးဖြစ်ပါသည်။ အပေါ်ကကြည့်လျှင် မြေပြင် မြေပြန့်ကိုသာ တွေ့ရသည်။ အောက်တွင် လိုဏ်ဂူရှိမှန်းမသိနိုင်ပါ။ အောက်ကို ငုံ့ကြည့်မှသာ ၁၅/၁၆ ပေ လောက်နက်သော မြေအောက်လိုဏ်ဂူကြီးကို တွေ့ရခြင်းဖြစ်ပါသည်။ ထိုလိုဏ်ဂူကြီးကို ပုဂံခေတ်ကတည်းက နရပတိစည်သူမင်းကြီး ဒကာပြု၍ တူးဖော်ခဲ့သည်ဟုဆိုပါသည်။ လွန်ခဲ့သည့် နှစ်ပေါင်း ၈၀၀ လောက်က ဖြစ်ပေလိမ့်မည်။

ထိုလိုဏ်ဂူတွင် အနောက်ဘက်မှာ ဝင်ပေါက် ၃ ပေါက် ရှိ၏။ မြောက်ဘက်မှာလည်း ဝင်ပေါက် ၂ပေါက် ရှိ၏။ ထိုဝင်ပေါက်များက ဝင်သွားပြီးနောက် အလွန်မှောင်သဖြင့် နေ့ခင်းအခါများမှာပင် အနီးအဝေးမမြင်နိုင်ပါ။ ထို့ကြောင့် နေ့လယ်လောက် အောက်သို့ဆင်းသွားလျှင်လည်း ရရာ လက်နှိပ်ဓာတ်မီး ဖယောင်းတိုင် သို့မဟုတ် မီးခွက်တို့ကို ယူဆောင်သွားကြရပါသည်။ သို့မှသာ မြင်နိုင်ပါသည်။

## ကျပ်ကန်ဂူကျောင်း

ထိုလိုဏ်ဂူတွင် သီးခြားအမည်ရှိပါ၏။ အမည်မှာ နန္ဒလိုဏ်ဂူ ဟူ၍ဖြစ်ပါ၏။ သို့သော်လည်း အများကမူကား သိတော်မူသည့်အတိုင်းပါပဲ ခက်ခက်ခဲခဲ မခေါ်ကြပါ။ ကျပ်ကန်ဂူကျောင်း ဟူ၍ပင် အလွယ်တကူ ခေါ်ဆိုကြပါသည်။ ထို့ကြောင့် ဆရာတော်ကြီး၏ အမည်ကိုလည်း ဦးနာရဒဟူ၍ မည်သူကမှ တကူးတကန့် ခေါ်ဆိုတော်မမူပါ။ ထုံးစံအတိုင်းပင် ကျပ်ကန်ဆရာတော်ကြီးဟူ၍ အလွယ်တကူ ခေါ်ဆိုကြပါသည်။

## နှစ် ၅၀ ကျော် ဂူထဲတွင် အားထုတ်ခဲ့

ထိုဂူကြီးထဲတွင် တရားအားထုတ်နေသော ဆရာတော်ကြီး တစ်ပါးရှိကြောင်း သိရှိရပါသည်။ သိရှိသူများ ပြောဆိုသည်မှာ ထိုဂူထဲတွင် တရားအားထုတ်နေသည်မှာ နှစ်ပေါင်း ၅၀ ကျော်ပြီ ဖြစ်ကြောင်း သိရှိရပါသည်။ လာရောက်ဖူးမြော်ကြသော ပုဂ္ဂိုလ်အပေါင်းတို့က ကျပ်ကန်ဆရာတော်ကြီးဟူ၍ပင် ခေါ်ဆိုကြပါသည်။



## ၁၉ နှစ် လုံးလုံး ဂူထဲက မထွက်

ထိုဆရာတော်ကြီးသည် လိုဏ်ဂူ၏ မြောက်ဘက်အပေါက်နှင့်နီးသော နေရာတွင် သီတင်းသုံးပါသည်။ ထိုနေရာတွင် ကြိုးခုတင်တစ်လုံးရှိပါသည်။ ဆရာတော်ကြီးသည် ခန္ဓာဝန်မချမီ နှစ်ပေါင်း ၁၉ နှစ်လုံးလုံး ဂူထဲအောင်းလျက် ဂူအပြင်ကို လုံးဝထွက်ခြင်းမရှိပါဟုသိရှိရပါသည်။

## တစ်နှစ် တစ်ခါ ရေချိုးရန်ထွက်

သို့သော်လည်း ချွင်းချက်ရှိပါသည်။ တစ်နှစ်တစ်နှစ်လျှင် တစ်ခါတစ်ခါတော့ အပြင်သို့ ထွက်လေ့ရှိပါသည်။ အကြောင်းအရင်းမှာ တစ်နှစ်တစ်ခါ ရေချိုးရန်ဖြစ်ပါသည်။ ဆရာတော်ကြီးသည် တစ်နှစ်တစ်ခါ ရေချိုးသည်ဆိုသော်လည်း အနံ့အသက်လုံးဝမရှိပါဟု သိရပါသည်။ အသားအရေများမှာလည်း အလွန်ပျော့ပျောင်းကြောင်း ပြောဆိုကြပါသည်။

## စကားပြောခဲ

ဆရာတော်ကြီးသည် အလွန်စကားပြောခဲပါသည်။ ပြောလျှင်လည်း နည်းနည်းကလေးသာ ပြောပါသည်။ လာရောက်၍ဖူးမြော်ကြသူများကိုလည်းကောင်း၊ လှူဖွယ်ပစ္စည်းများ လှူကြသူများကိုလည်းကောင်း အကျိုးအကြောင်း စပ်လျဉ်း၍ပင် စကားပြောဆိုမေးမြန်းခြင်း မရှိဟု သိရပါသည်။ ဘယ်က လာသလဲဟူ၍လည်းကောင်း ဘယ်သူဘယ်ဝါလဲ ဟူ၍လည်းကောင်း မေးလေ့မေးထမရှိပါ။

ထို့ကြောင့်ပင် ဆရာတော်ကြီး၏ သဘောသဘာဝ အလေ့အထကို သိရှိသော တပည့်အပေါင်းတို့က မိမိတို့သည် ဘယ်သူဘယ်ဝါဖြစ်ကြောင်း ဘယ်ကလာကြောင်း မိမိတို့ကပင် စတင်၍ ပြောဆိုကြရပါသည်။ ထိုကဲ့သို့ ပြောဆိုလျှောက်ထားသော်လည်း ဆရာတော်ကြီးသည် ဘာမှ ထွေထွေထူးထူး မိန့်တော်မူ၍မရှိပါ။ ပစ္စည်းလှူလျှင် လက်ဖြန့်ပေးပြီး အကပ်ခံလိုက်သည်။ ၎င်းနောက်အနီးရှိ ဦးပဥ္စင်းအား တစ်ခါတည်း ပေးလိုက်ပါတော့သည်။ လှည့်မကြည့်တော့ပါ။

## ဆွမ်းမကပ်လည်း ရပါသည်

အနီးအနားတွင် ကိုရင်ကြီးတစ်ပါးရှိ၏။ ဦးပဥ္စင်းတစ်ပါးလည်းရှိ၏။ ထိုနှစ်ပါးသည်လည်း အမြဲမရှိပါ။ တစ်ခါတလေ မည်သူမျှ မရှိသဖြင့် မည်သူမှ ဆွမ်းမကပ်ကြပါ။ ထိုအခါလည်း ဆရာတော်ကြီးက မေးမြန်းခြင်းမပြုပါ။ ဆွမ်းလည်းမစားပါ။ ကိုရင်ကြီးတို့ ဦးပဥ္စင်းကြီးတို့ ပြန်ရောက်လာ၍ ဆွမ်းကပ်ပြန်သောအခါမှသာ ပြန်လည်၍ ဆွမ်းဘုဉ်းပေးပြန်ပါသည်။

## အထူးအဆန်း စကား

၁၉၈၇ ခန္ဓာဝန်မချခင် ဝါဆိုလဆန်းလောက်တွင် ဆရာတော်ကြီးက ထူးထူးဆန်းဆန်း ပြောပါသည်။ 'ငါဟာ ဒီနှစ်ဝါ မဆိုတော့ဘူး' ဟူ၍ ဖြစ်ပါသည်။ ထိုနှစ်သည် အေဒီ ၁၉၈၇ ခု (၁၃၄၉ ခုနှစ်) ဖြစ်ပါသည်။

၁၉၈၇ ဆရာတော်ကြီး ထူးထူးဆန်းဆန်း မိန့်တော်မူသည့်အတိုင်းပင်လျှင် ထိုအေဒီ ၁၉၈၇ခု၊ ဇူလိုင်လ ၆ရက်၊ တနင်္လာနေ့ (၁၃၄၉ ခု ဝါဆိုလဆန်း ၁၁ ရက်နေ့) တွင် ဆရာတော်ကြီးသည် အမောဖောက်သည်ဟုဆိုပါသည်။ ထိုအခါ နီးစပ်ရာ ဒါယကာ ဒါယိကာမများက ဆရာဝန်များနှင့် ဆေးထိုးသောအခါ အမောသက်သာသည်ဟုဆိုပါသည်။

၁၉၈၇ သို့သော်လည်း အေဒီ ၁၉၈၇ခု၊ ဇူလိုင်လ ၇ ရက်၊ အင်္ဂါနေ့ (၁၃၄၉ ခု ဝါဆိုလဆန်း ၁၂ ရက်နေ့)နှင့် ၁၉၈၇ ခု၊ ဇူလိုင်လ ၈ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၄၉ ခု၊ ဝါဆိုလဆန်း ၁၃ရက်နေ့)များတွင် လုံးဝစကားမပြောတော့ဘဲ ပကတိအတိုင်းပင်လျှင် မလှုပ်မယှက် နေလျက် တရားကိုသာ အားထုတ်ပွားများလျက်ရှိပါသည်။



**ခန္ဓာဝန်ချတော်မူခြင်း**

၁၉၈၇ ၎င်းနောက် အေဒီ ၁၉၈၇ ခု၊ ဇူလိုင်လ ၉ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၄၉ ခု၊ ဝါဆိုလဆန်း ၁၃ရက်နေ့) ည ၉ နာရီ ၈ မိနစ်အချိန်တွင် ခန္ဓာဝန်ချတော်မူကြောင်း သိရှိရပါသည်။ ထိုအခါ သက်တော် ၉၁ နှစ် ဝါတော် ၇၁ ဝါ ရှိကြောင်း သိရှိရပါသည်။

သို့သော်ဝမ်းနည်းစရာကောင်းသည့်အချက်မှာ ဆရာတော်ကြီး၏ မွေးဖွားရာဇာတိကိုလည်းကောင်း၊ မိဘဘိုးဘွားတို့၏ အမည်နာမများကိုလည်းကောင်း၊ ငယ်စဉ်က အခြင်းအရာများကိုလည်းကောင်းမသိရှိရပါ။

သိသမျှပြောပါမည်။ ဆရာတော်ကြီး၏ ရုပ်အလောင်းကို ထိုနှစ် ဝါဆိုလကွယ်နေ့အထိထားမည်။ နောက်ဆုံး မီးသဂြိုဟ်မည်ဟူ၍ အစီအစဉ်ပြုကြောင်း သိရပါသည်။ ထို့ကြောင့်လည်း နားလည်သူ အပေါင်းတို့က အကြံပေးချက်အရ အလွန်ပူပြင်းလှသော အညာ၏နွေကို ကြောက်သောကြောင့် ကြံမိ ကြံရာ ကြံစည်ကြသည့်အတိုင်း ကောင်းမည်ထင်သဖြင့် ပြုလုပ်ကြသည့် အစီအစဉ်တစ်ခုရှိပါသည်။ ထိုအစီအစဉ်မှာ အခြားမဟုတ်။ ဆရာတော်ကြီးကို ရေရှည်ကိုးကွယ်လိုသဖြင့် ကြံစည်ကြခြင်းဖြစ်ပါသည်။

**ရင်ခွဲ၍ အသည်းများ ထုတ်ကြခြင်း**

ဆရာတော်ကြီး၏ ရင်ကိုခွဲ၍ အူ အသည်းများကို ထုတ်ကြပါသည်။ ၎င်းနောက် အိုးဖြင့်ထည့်ကာ မြေတွင် ဦးစွာမြှုပ်ကြသည်ဟု ဆိုပါသည်။

၁၉၈၇ ကြွင်းကျန်သော ရုပ်ကလာပ်တော်ကြီးကို ဖူးမြော်ကြရင်း ထို အေဒီ ၁၉၈၇ ခု၊ ဇူလိုင်လ ၁၈ ရက်၊ စနေနေ့ (၁၃၄၉ ခု၊ ဝါဆိုလပြည့်ကျော် ၈ ရက်နေ့)တွင် ရုပ်ကလာပ်တော်ကို စံကျောင်းတော် ကြာကလပ်ပေါ်သို့ ပြောင်းရွှေ့ကြပါသည်။ မှန်ခေါင်းသွင်းကြပါ သည်။ ထိုအခါ ရုပ်ကလာပ်တော်မှ တောင့်တင်းခြင်းလည်းမရှိ။ မာကြောခြင်းလည်း မရှိ။ ပုပ်သိုးခြင်းလည်းမရှိ၊ ဖောင်းပွခြင်းလည်းမရှိ။ ရှေးသရောအခါကကဲ့သို့ပင် ဖူးမြင်ရ၏။ ကျိန်းစက်နေသကဲ့သို့မှတ်ထင်ရ၏။

**၁၁ ရက်ကြာသောအခါ မြေထဲက ပြန်ဖော်သောအခါ**

ထိုအခါ အကြံဆန်း ကြံမိသူတို့က ရှေးအခါက မြှုပ်ခဲ့သော အူ အသည်းများကို အိုးလိုက် ပြန်၍ ဖော်ကြည့်ကြ၏။ ထိုအခါ ၁၁ ရက်လုံးလုံး မြေ၌မြှုပ်ထားသော အူ အသည်းတို့သည် အနံ့အသက်လုံးဝမရှိ။ ပကတိအတိုင်းပင်တွေ့ကြရသည်။

**ဓာတ်တော်တွေ တဖွားဖွားကျ**

ထိုအခါမှ မိမိတို့၏ လုပ်ရပ်ကို မှားကြောင်းသိ၍ နောင်တကြီးစွာ ရကြရသည် ဟု ဆိုပါသည်။ ထို အူ အသည်းများကို အခြားလုပ်စရာ မရှိတော့သဖြင့် မီးသဂြိုဟ်ကြပါသည်။ ထိုအခါ အူ အသည်းမှာ ဓာတ်တော်များ တဖွားဖွားကျပါ သည်။ ထိုသတင်းသည် အလွန်ထူးဆန်းသဖြင့် ပုဂံညောင်ဦး အညာတစ်ခို ပြန့်နှံ့သွားပါတော့သည်။

**နံနက်စောစော မိုးကြီးရွာ**

ရုပ်ပန ကျင်းပမည့် ဝါဆိုလကွယ်နေ့တွင်ကား လာရောက်ဖူးမြော်သူ ပရိသတ်တို့မှာ တစ်သောင်းနှစ်သောင်းမကပါဟု ဆိုကြပါသည်။ နံနက်မလင်းမီကပင် လူပြည့်နေ သည်ဟုဆိုပါသည်။ ထိုအချိန်တွင် အထူးအဆန်းတစ်ခုဖြစ်ပါသည်။ ထိုအချက်မှာ နံနက် ၇ နာရီခွဲ နှင့် ၈ နာရီခွဲအတွင်း တစ်နာရီလောက် ပြင်းပြင်းထန်ထန် သဲသဲမဲမဲ မိုးကြီး ကြီးစွာ ရွာချခြင်းဖြစ်ပါသည်။



## နေ့လယ်မှာ သံအုပ်ဆောင်း

နေ့လယ် ၂ နာရီလောက်အချိန်တွင် စံကျောင်း ကြာကလာပ်ပေါ်မှာ မီးသင်္ဂြိုဟ်ရာ အုတ်ဂူသို့ ရုပ်ကလာပ်တော်ကို သယ်ဆောင်ကြပါသည်။ ရုပ်ကလာပ်တော်ကို အုတ်ဂူပေါ်မှာတင်ပြီး သံအုပ်ဆောင်းအုပ်လိုက်သည်။

## ညနေမှာ မီးသင်္ဂြိုဟ်၊ ညမှာ ဓာတ်တော်ကျ၊ ညချင်းစေတီတည်၊

ညနေ ၃ နာရီအချိန်လောက်တွင် မီးသင်္ဂြိုဟ်ကြပါသည်။ ည ၉ နာရီအချိန်လောက်တွင် အရိုးတော်အသားတော်တို့မှာ ဓာတ်တော်များ တဖွားဖွား ကျကြပါသည်။ ထိုဓာတ်တော်အပေါင်းတို့ကို မီးသင်္ဂြိုဟ်ရာ အုတ်ဂူပေါ်မှာပင် ဌာပနာ သွင်းကာ ညတွင်းချင်း စေတီတည်ထား ကိုးကွယ်ကြကြောင်း သိရပါသည်။

နောင်မှ စပ်စပ်စုစု စုံစမ်းစစ်ဆေး မေးမြန်းခြင်းဖြင့် ကြွင်းကျန်သော အချက်အလက်များကို သိရှိရပါသည်။

## မြင်းကပါ အရှေ့ကုန်း နကြီးအိုင်ဇာတိ

ရှေးအခါ ဆရာတော်ကြီးသည် နကြီးအိုင်ကျောင်းတွင် နှစ်ပေါင်း ၂၀ လောက် စာပေများ ပို့ချခဲ့သေးကြောင်း သိရှိရပါသည်။ နကြီးအိုင်မှာ မိခင်၏ ရွာဖြစ်ကြောင်း သိရပါသည်။ မိခင်ကြီးမှာ ဒေါ်ဘန်းဆိုသူဖြစ်ကြောင်း သိရှိရပါသည်။ နကြီးအိုင် ရွာသူဖြစ်၏။ ဖခင်မှာ မြင်းကပါအရှေ့ကုန်း ရွာသားဖြစ်ကြောင်းသိရပါ၏။ အမည်တော်မှာ ဦးရွှေပြားဖြစ်၏။ သို့နှင့် ရှာဖွေမရသော ဆရာတော်ကြီး၏ ခမည်းတော် မယ်တော်တို့ကိုလည်း သိရပါသည်။

## ငယ်မည် မောင်ထွန်းမောင်

ဇာတိရွာကိုလည်းသိရပါသည်။ ဆရာတော်ကြီး၏ ငယ်နာမည်မှာ မောင်ထွန်းမောင် ဖြစ်ကြောင်းသိရှိရပါသည်။ ဒေါ်ဘန်းမှာ သားသမီး၄ယောက်ရှိကြောင်း သိရပါသည်။ မောင်ထွန်းမောင်မှာ ဒုတိယမြောက် သားဖြစ်ကြောင်း သိရှိရပါသည်။

## ရဟန်းဘွဲ့ရှင်နာရဒ

ရှင်သာမဏေပြုသောအခါ ဘွဲ့တော်မှာ ရှင်နာရဒဖြစ်ကြောင်း သိရပြန်ပါသည်။ ရဟန်းပြုပြီးသည့်ကာလမှာစ၍တစ်လျှောက် ရဟန်းဘဝနှင့်နေတော်မူခဲ့ကြောင်းသိရပါသည်။ မည်သည့်ကျောင်းတွင် မည်သည့်ဆရာတော်များထံတွင် နည်းနာခံခဲ့ဖူးကြောင်းပါ စုံစမ်း၍မရခဲ့ပါ။

## နကြီးအိုင်တွင် နှစ် ၂၀

မိခင်ကြီး၏ဇာတိ နကြီးအိုင်ကျောင်းတွင်ကား နှစ်ပေါင်း ၂၀ ကျော်မှ သီတင်းသုံးလျက် ပရိယတ္တိ စာပေများ သင်ကြားပို့ချခဲ့ကြောင်းသိရှိရပါသည်။ ၎င်းနောက် ထိုနကြီးအိုင်ရွာကို စွန့်ခွာ၍ ကျပ်ကန်ဂူ ကျောင်းတွင် ခန္ဓာဝန်ချသည့်အထိ သီတင်းသုံးတော်မူခဲ့ကြောင်း သိရှိရပါသည်။ ဒီထက်ပို၍ သိသူများက ဖြည့်စွက်ရေးသားကြလျှင် အလွန်ကောင်းပါလိမ့်မည်။

(ကျမ်းကိုး၊ ၁။ ထွန်းဝေ၊ ရေနံချောင်း၊ ထူးခြားဆန်းကြယ်သော ကျပ်ကန်ဆရာတော်ကြီး၊ မြတ်မင်္ဂလာ စာစောင်၊ စာ၊ ၄၃-၄၄-၄၅)

(ကျမ်းကိုး၊ ၂။ မြတ်မင်္ဂလာစာစောင်၊ ၁၉၈၆ ခု၊ မတ်လ ၊ အတွဲ ၁၊ အမှတ် ၉ )

အရိုးများ ချိတ်ဆက်ဖြစ်နေသော ဆရာတော်

မြန်အောင်မြို့နယ် လဟာပေါက်အုပ်စု၊ နောကုန်းကျေးရွာ ဆရာတော်

# ဦးသီရိန္ဒရ

အေဒီ ၁၈၉၆ – ၁၉၈၄ ( ၁၂၅၈ – ၁၃၄၆ )





၁၉၉၅ ခုနှစ်၊ ဂျပန်ပြည်တွင် အလုပ်လုပ်လျက်ရှိစဉ် မြန်မာပြည်မှာ ထွက်ရှိသော မဂ္ဂဇင်းများကို တကူးတကမှာ၍ စျေးကြီးကြီးနှင့် ဖတ်ရှုရပါသည်။ ထိုစဉ်က ဂမ္ဘီရမဂ္ဂဇင်းတစ်စောင်ကို ယန်းတစ်ထောင်ပေး၍ ဖတ်ရှုရပါသည်။ မြန်မာစာနှင့် ရေးထားသမျှ မြတ်မြတ်နိုးနိုး ဖတ်ရှုရသောကာလ ဖြစ်ပါသည်။ ထို ၁၉၉၅ ခု၊ နိုဝင်ဘာလကုန် ဂျာနယ် အမှတ် ၉ ၊ စာ ၈၅ တွင် ဆရာမြင့်လွင် (ဟင်္သာတ)၏ ဆောင်းပါးထူးတစ်ပိုဒ်ကို ဖတ်ရှုရရာ အလွန်အားရ ကြည်နူးခဲ့ပါသည်။ ပျံလွန်တော်မူပြီး ရက် ၄၀ ကြာ မပုပ်မသိုး ခြေလက်များ ချိုးကြည့်လို့ ရသည့်ရဟန်းထူးမှာ မြန်အောင်မြို့နယ် လဟာပေါက် အုပ်စု၊ နှောကုန်းကျေးရွာ ဆရာတော်ဦးသီရိနန္ဒ၏ မဟာထေရုပ္ပတ္တိ တစေ့တစောင်း ဖြစ်ပါသည်။

## အရိုးများ ချိတ်ဆက်ဖြစ်နေခြင်း

ဆရာတော် ပျံလွန်တော်မမူခင် သက်တော် ဝါတော် ကြီးရင့်ပြီဖြစ်သဖြင့် ကျန်းမာရေး အတွက် လိုအပ်ချက်အရ ဓာတ်မှန်များ အကြိမ်ကြိမ်ရိုက်ကြည့်ရာတွင် အရိုးဆက်များနေရာ၌ ချိတ်ဆက်ဖြစ်နေသည်ကို တွေ့ကြရသည်။

## မိုးရေ လုံးဝ မစိုစွတ်ခြင်း

ဆရာတော် ကျန်းမာရေးမကောင်း ပုသိမ်တိုင်းဆေးရုံကြီး တက်ရောက်ကုသရာမှ အပြန်ခရီး၌ ပုသိမ်မှ ရထားစီးလာပြီး တဲကြီးကုန်းဘူတာသို့ဆင်းပြီး နှောကုန်းကျေးရွာရှိ သီတင်းသုံးတော်မူကျောင်းသို့ ပြန်ကြွရာတွင် မိုးအခါဖြစ်၍ မိုးကြီးသည်းစွာ ရွာချသော်လည်း ဆရာတော်အား ထမ်းစင်ဖြင့် ထမ်းပိုးသယ်ယူကြသော တပည့်များနှင့် ဆရာတော်ကို မိုးရေလုံးဝမစွတ်စိုဘဲ ပကတိအတိုင်းရှိသည့် ထူးခြားမှုများလည်းဖြစ်ခဲ့သည်။

## ရက်ပေါင်း ၄၀ အထိ လက်ချောင်းများ ကွေး၍ဆန့်၍ ရခြင်း

ပျံလွန်တော်မူပြီး ရက်ပေါင်း ၄၀ အထိ ရုပ်အသွင်ပြောင်းခြင်း၊ ပုပ်သိုးခြင်းများ မရှိသည့်အပြင် ခြေချောင်း၊ လက်ချောင်းများကိုကွေး၍ ဆန့်၍ပင်ရရှိသည်။ ပျံလွန်တော်မူပြီးသည်၏ နောက်တွင် ဆံပင်တော်များ ရှည်နေခဲ့ပြီး ယနေ့အထိ အနံ့အသက်မထွက်ဘဲရှိနေသည်။

## ဇာတိ

၁၈၉၆ ဆရာတော်သည် ဧရာဝတီတိုင်းဒေသကြီး ဟင်္သာတခရိုင် မြန်အောင်မြို့နယ်၊ လဟာပေါက် အုပ်စု၊ မဲဇလီကွင်း ကျေးရွာနေ အဘ ဦးထွန်းရွှေ၊ အမိ ဒေါ်ရွှေလှိုင်တို့မှ အေဒီ ၁၈၉၆ ခု၊ ဒီဇင်ဘာလ ၂၅ ရက်၊ (၁၂၅၈ ခုနှစ် နတ်တော်လပြည့်ကျော် ၆ ရက်) သောကြာနေ့တွင် ဖွားမြင်ခဲ့သည်။

(ကျမ်းကိုး၊ မြင့်လွင် ဟင်္သာတ၊ ပျံလွန်တော်မူပြီး ရက် ၄၀ ရ မပုပ်မသိုးခြေလက်များ ချိုးကြည့်လို့ ရသည့် ပုဂ္ဂိုလ်၊ ဂမ္ဘီရ အမှတ် ၄၊ ၁၉၉၅ခု၊ နိုဝင်ဘာလ စာ ၈၆ )

## ငယ်မည် မောင်သာကျော်

၁၉၀၈ မိသားစုညီအစ်ကို မောင်နှမ ၅ ယောက်ရှိသည့်အနက် တတိယ မြောက်သားဖြစ်ပြီး ငယ်နာမည် မောင်သာကျော်ဟု နေ့သင့်နံသင့် အညွန့်ကိုယူ၍ မှည့်ခေါ်ခဲ့သည်။ ၁၉၀၈ ခုနှစ်၊ အသက် ၁၂ နှစ်သားအရွယ် အရောက်သည်တွင် မိဘနှစ်ပါးက



ကျေးရွာတစ်အုပ်စုထဲတွင်ရှိသော နှောကုန်းကျေးရွာရှိ ဆရာတော် ဘဒ္ဒန္တသာသနထံတွင် အပ်နှံ၍ လောကုတ္တရာ စာပေများကို သင်ကြားတတ်မြောက်စေပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၆)

## ရှင်သာမဏေအဖြစ်

၁၉၀၉ နှောကုန်းကျောင်းသို့ ရောက်ရှိပြီး တစ်နှစ်အကြာတွင် မိဘနှစ်ပါးက ၁၉၀၉ ခုနှစ် အသက် ၁၃ နှစ်သို့ ရောက်သောအခါ ရှင်သာမဏေ အဖြစ်သို့ သွတ်သွင်း ချီးမြှင့်ပေးသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

## အာဂုံဆောင်

ကျောင်းသားဘ၀ ရှင်သာမဏေဘယ်ဘယ်ကပင် အပြင်အောင်ခြင်းရှစ်ပါး၊ အတွင်းအောင်ခြင်း ရှစ်ပါး၊ နမက္ကာရ၊ ရတနာရွှေချိုင့်၊ ပရိတ်ကြီး၊ သဂြိုဟ်ကိုးပိုင်း၊ သဒ္ဒါကြီး ၄ စောင်တို့ကို အာဂုံဆောင်နိုင်ခဲ့သည်။ အသက် ၁၈ နှစ်အရွယ် ရှင်သာမဏေ ၆ ဝါ အရတွင် သဒ္ဒါကြီး ၈ စောင်လုံးကို ဆုံးခန်းတိုင်အောင် ကြိုးစားသင်ကြားတော်မူခဲ့သည်။

၁၉၁၆ စာပေများတတ်မြောက်ပြီး အကျင့်သီလနှင့် ပြည့်စုံသော ရှင်သာမဏေ ရှင်သီရိနန္ဒရကို ကြည်ညို သောအားဖြင့် ရဟန်းအဖြစ် ဥပသမ္ပဒါ ကံဆောင်ရန် ဒါယကာများ ပေါ်လာသည့်အထဲတွင် ဦးစံလှကျော် ဒေါ်ပန်းတို့၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ အေဒီ ၁၉၁၆ ခု၊ (၁၂၇၈ ခုနှစ်)တွင် နှောကုန်းကျောင်းဆရာတော် ဘဒ္ဒန္တသာသနကို ဥပဇ္ဈာယ်ပြုကာ မြင့်မြတ်သော ရဟန်းဘ၀သို့ ရောက်ရှိခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

ဆရာတော်သည် တပည့်ဖြစ်သူ ဦးသီရိနန္ဒရ၏ ဉာဏ်ရည်ဉာဏ်သွေး ထက်မြက်ပုံကို သိထားတော်မူသည်ဖြစ်၍ သာသနာတော်အရေး အရှည်မြော်တွေးပြီး ရန်ကုန် - မန္တလေး ပခုက္ကူ မြို့ကြီးများရှိ စာချဆရာတော် ပုဂ္ဂိုလ်အမော်တို့ထံ အပ်နှံ၍ ပိဋကတ်တော်ဆိုင်ရာ စာပေများကို သင်ကြားစေတော်မူသည်။

၁၉၁၄ ရဟန်းဘ၀သို့ ရောက်ပြီး ၁၉၁၄ ခုနှစ်၊ ရဟန်း ၅ ဝါမြောက် ရရှိသောအခါ ဆရာရင်းဖြစ်သူ ဥပဇ္ဈာယ် ဆရာတော်ထံ ပြန်ကြွပြီး နှောကုန်းကျေးရွာမှာပင် ဆရာတော်ကြီးအား ဝတ်ကြီးဝတ်ငယ်ပြုရင်း ကျောင်းရှိရဟန်းသံဃာ ကိုရင်များနှင့် ကျောင်းသားများကို စာပေသင်ကြား ပို့ချပေးသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

စာပေသင်ကြားပို့ချရာတွင် အလွန်ကျွမ်းကျင် ပိုင်နိုင်သောကြောင့် မြန်အောင်မြို့ရှိ စာသင်တိုက်ကြီးတစ်တိုက်ဖြစ်သော မြို့ရွှေကျောင်းဆရာတော်နှင့်တကွ ဒါယကာ ဒါယကာမများ၏ ပင့်ဖိတ်ခြင်းခံရရာ နှောကုန်းကျောင်းဆရာတော်ကလည်း ခွင့်ပြုသဖြင့် မြန်အောင်မြို့ မြို့ရွှေကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးတော်မူပြီး စာသင်သား ရဟန်းသာမဏေများကို စာပေများသင်ကြားပို့ချကာ ပရိယတ္တိသာသနာကို ပြုတော်မူခဲ့သည်ဟု သိရပါသည်။



၁၉၂၄ မြို့ရွှေကျောင်းတွင် စာသင်ကြားပို့ချရာ ၁၉၂၄ ခုနှစ်၊ ၁၅ ဝါသို့ ရောက်ရှိသည်တွင် မူလ ဥပဇ္ဈာယ် ဆရာရင်း နှောကုန်းကျောင်း ဆရာတော်ကြီး ပျံလွန်တော်မူသော ကြောင့် နှောကုန်းကျောင်းသို့ ပြန်လည် သီတင်းသုံးတော်မူပြီး ပဋိယတ္တိသာသနာတော် ကိုပါ ပြုတော်မူသည်။ ဝိပဿနာ တရားပွားများအားထုတ်ခြင်းကို မနားမနေ ပြုတော် မူသည်ဟုသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

၁၉၈၁ ဆရာတော်၏ သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့ကြောင့် အေဒီ ၁၉၈၁ ခု၊ (၁၃၄၂ ခုနှစ်)တွင် မြန်အောင်မြို့နယ် သံဃာ့မဟာနာယက အဖွဲ့ကြီး၏ မြို့နယ် ဩဝါဒစရိယ ဆရာတော်အဖြစ် တင်မြှောက်ခြင်းခံရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

၁၉၈၄ ပရိယတ္တိသာသနာ ပဋိယတ္တိ သာသနာတော်အကျိုးများကို ထမ်းဆောင်တော်မူစဉ် သက်တော် ၈၈နှစ်၊ ဝါတော် ၆၈ နှစ် ဝါအရောက် အေဒီ ၁၉၈၄ ခု၊ ဩဂုတ်လ ၁၉ ရက်၊ တနင်္ဂနွေနေ့ (၁၃၄၆ ခုနှစ် ဝါခေါင်လပြည့်ကျော် ၈ ရက်နေ့) ည ၈ နာရီတွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။ သည့်ထက် ပို၍မသိရပါ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

ပျံလွန်တော်မူပြီး ရက် ၄၀ အထိ ရုပ်အသွင်ပြောင်းခြင်း မရှိသည့်အပြင် ခြေချောင်း၊ လက် ချောင်းများကို ကွေး၍ဆန့်၍ပင်ရရှိသည်။ ပျံလွန်တော်မူပြီးသည်၏နောက်တွင် ဆံပင်တော်များ ရှည်နေခဲ့ပြီး အနံ့အသက်မထွက်ဘဲရှိနေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

ပျံလွန်တော်မူခါနီးဆဲဆဲ ကာလမှာပင် ဆရာတော်ထံ စုရုံးရောက်ရှိလာကြသော တပည့်ဒါယကာ ဒါယိကာမများအား ခန္ဓာရသူတိုင်း ခံစားရသည့် ဝေဒနာတစ်ရပ်ကို ကျော်လွန်အောင် ရှုနိုင်သည့် ဝိပဿနာကို အထူးကြိုးစားကြဟု မိန့်ကြား တော်မူရင်းနှင့်ပင် ဆရာတော်သည် နတ်ထီးနိဗ္ဗူ ဝင်စံတော်မူ သည်။

(ကျမ်းကိုး၊ မြင့်လွင် ဟသ်ာတ၊ ပျံလွန်တော်မူပြီး ရက် ၄၀ ရ မပုပ်မသိုးခြေလက်များ ချိုးကြည့်လို့ ရသည့် ပုဂ္ဂိုလ်၊ ဂမ္ဘီရ အမှတ် ၄၊ ၁၉၉၅ခု၊ နိုဝင်ဘာလ စာ ၈၄-၈၇)

ပြည်မြို့ ပထမ နန္ဒဝန်ဆရာတော်ကြီး

# ဦးဝိသုဒ္ဓါစာရ ရဟန္တာအရှင်မြတ်

ခေတ် ၁၈၉၈ – ၁၉၆၁ (၁၂၆၀ – ၁၃၂၃)





နန္ဒဝန်ဆရာတော်ဟူ၍ ကြားဖူးခဲ့ပါ၏။ မြန်အောင်မြို့ နန္ဒဝန်ဆရာတော်ကြီး ဟူ၍လည်း ရှိ၏။ ထိုဆရာတော်ကြီးမှာ ဓာတ်တော်ကျတော်မူသဖြင့် ရဟန္တာဟူ၍ အကျော်တစော ရှိလှ၏။ ယခု ဆရာတော်ကား နန္ဒဝန်ဆရာတော် ဟူ၍ပင်ဖြစ်ပါ၏။ သို့သော် မြန်အောင် နန္ဒဝန် ဆရာတော်ကြီးနှင့် အမည်တော် ဆင်တူနေသဖြင့် ပြည်မြို့ နန္ဒဝန်ဆရာတော်ကြီးဟူ၍ သီးခြားတင်ပြခြင်း ဖြစ်ပါသည်။ ပြည်နန္ဒဝန်ဆရာတော်ကြီးမှာ ၁၃၂၃ ခုနှစ် ကတည်းက ခန္ဓာဝန်ချပြီးဖြစ်၏။ ယခုထက်တိုင် ရုပ်ကလာပ်တော်ကို ဖူးမြော်နိုင်သေး၏။ ထူးပါ၏။

ပြည်မြို့တွင် ရွှေဆံတော်စေတီတော်ကြီးရှိ၏။ လူတိုင်းသိ၏။ ထိုဆံတော်ရှင် စေတီတော်ကြီး၏ တောင်ဘက်တွင် သန္ဓေပင်ရိပ်သာဟူ၍ရှိ၏။ သန္ဓေပင်ရပ်တွင်ရှိ၏။ ထို့ကြောင့်ပင် သန္ဓေပင်ရိပ်သာဟု ခေါ်ပုံရပါသည်။ ရွှေဆံတော်စေတီတော်မြတ်ကြီး၏ တောင်ဘက်မှာရှိ၏။ ၂ မိုင်လောက်ဝေး၏။

ဆရာတော်သည် နိုင်ငံအဝန်း ကျော်တော်မမူခဲ့သော်လည်း သက်ဆိုင်ရာ ဒကာ ဒကာမတို့၏ လောက၌ နှစ်ပေါင်းများစွာ အရိယာအရှင်မြတ်ကြီးအဖြစ် သိမှတ်ကိုးကွယ်ခဲ့ကြသည်။

(ကျမ်းကိုး။ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ဓမ္မဒူတ၊ ပထမတွဲ ပထမအကြိမ်၊ ၁၉၈၅ ခု၊ ဒီဇင်ဘာလ စာ ၁၃၉)

ထို့ကြောင့် နန္ဒဝန်ဆရာတော်ကြီးအကြောင်းကို ဆက်လက်ရှာဖွေလေ့လာရပါသည်။

ခေတ္တရာရပ်ကွက်အနီး အဝေးပြေးကားဂိတ်ကြီးနှင့်ကပ်လျက် မြို့ပတ်လမ်းမှ လမ်းအတိုင်း တောင်သို့ထွက်ခဲ့ကြရာ မကြာခင် ကတ္တရာခင်း လမ်းမကြီးနှင့်ဆုံတော့သည်။ နဝဒေးကားလမ်းမကြီးဟုခေါ်၏။

ထိုမှ မြောက်သို့ လမ်းအတိုင်း ၁ မိုင် ကျော်ကျော် သွားမိသောအခါ လမ်းနံဘေးဘယ်ဘက်တွင် လမ်းညွှန်ဆိုင်းဘုတ်ငယ်တစ်ခုကို တွေ့ရလေသည်။ ပထမ နန္ဒဝန်ဆရာတော်ကြီး ရုပ်ကလာပ်တော်ရှိရာ စံကျောင်းသို့ဟူသော ဆိုင်းဘုတ်ငယ် ဖြစ်သည်။

(ကျမ်းကိုး။ ဦးကျော်၊ ပြည်၊ ရုပ်ကလာပ်တော် စံကျောင်းအတွင်း၊ ကျောက်စာချပ်များမှ ကျင့်ကြံအားထုတ်ရေး လမ်းညွှန်တရားတော်၊ ပါရမီမဂ္ဂဇင်း၊ ၂၀၀၁ ခု၊ စက်တင်ဘာလ ၊ အမှတ် ၁၀၈၊ စာ ၃၇)

ဆရာတော်၏ ဇာတိမည်ရည် စသည်တို့ကား ဤသို့ဖြစ်ပါသည်။

၁၈၉၈ ဆရာတော်လောင်းလျာ မောင်သင်သည် ဓနုဖြူမြို့တောင်ဘက် နှစ်ဖာလုံခန့် အကွာ သာယာကုန်းခေါ် နန်းတော်ကုန်းအရပ်၊ ဦးဘိုးကြူ ဒေါ်ရွှေအိတို့၏ ဒုတိယ သားရတနာဖြစ်သည်။ ၁၂၆၀ ပြည့်နှစ်၊ ပြာသိုလဆန်း ၁၅ ရက် ဗုဒ္ဓဟူးနေ့ ဖွားမြင်တော်မူခဲ့၏။ ၅ နှစ်သား ရှင်ပြု၊ ၉ နှစ်သား ရှင်လူထွက်၊ ၁၅ နှစ်တွင် ဖခင်ကြီး ဆုံးသည်။

၁၉၂၈ အသက် ၂၀ တွင် မပိုးဆိုသူနှင့် မိဘတို့ပေးစား၍ သားသမီး နှစ်ယောက်ရ၏။ အိမ်ထောင်ကျစကပင် ရဟန်းပြုလိုသောစိတ်ကို မျိုသိပ်မရသဖြင့် ဇနီး မိဘရပ်ထံ ပြန်ခိုက် စာဖြင့်အကြောင်းကြား၍ ၁၂၉၀ ပြည့်နှစ်၊ တပို့တွဲလပြည့်ကျော် ၂ ရက် နေ့တွင် ရဟန်းပြုလိုက်သည်။

ဦးဝိသုဒ္ဓါစာရသည် ဇနီး အန္တရာယ်ကြောင့် ရပ်ရွာမှပယ်ခွာ၍ စလေမြို့နှင့် နှစ်မိုင်အကွာ ဥမင်ဂူဆရာတော်ကြီးထံတွင်ခိုလှုံ၏။ ဇနီးလိုက်လာပြန်၍ အနီးရှိ ဒကာ ဒကာမတို့က ဝိုင်း၍ချော့မော့ မေတ္တာရပ်လွှတ်လိုက်ကြရသည်။



၁၉၃၃ ဦးဝိသုဒ္ဓါစာရလည်း ပုဂံ၊ ညောင်ဦး၊ မန္တလေး စစ်ကိုင်းမြို့များသို့ ခရီးရှည်သွားသော ဘုရားဖူးပြီးနောက် ခြေရာဖျောက်လျက် ပြည်မြို့သို့ ရောက်ကာ ဆေးရိုးချောင်တောင်၊ ဖွတ်လည်တောင်တို့၌ ၁၂၉၅ ခုနှစ်မှစ၍ ရုက္ခမူစုတင်၊ ပိဏ္ဍပါတ်စုတင်များကို ဆောင်ကာ ဇကော ကျင့်သုံးတော်မူ၏။ ဒကာ ဒကာမများက သစ်ရွက်မိုးကျောင်း ဆောက်လှူကြသည်။ ပစ္စည်းအသုံးအဆောင်ကောင်းများ မထား၊ ကျောနာသက်သာစေရန် ကော်ဇောလှူလိုသူအား ဂုံနီအိတ်လေးလုံး လှူစေ၍ ၇ နှစ်ခန့်သုံးစွဲတော်မူသည်။

နောက် သန္ဓေပင်ရွာ၌ ကျောင်းအရံမြေများပါ လှူကြသဖြင့် နန္ဒဝန်ကျောင်းသစ်တည်ကာ အတည်တကျ သီတင်းသုံးတော်မူခဲ့၏။ ဂျပန်ခေတ်တွင် မြို့ပျက်၍ ဒကာ ဒကာမများ တောအရပ် အသီးသီးသို့ ပြောင်းရွှေ့သွားကြသော်လည်း ဆရာတော်မှာ ရသမျှနှင့်မျှတရောင့်ရဲကာ ဖြစ်သလို ဇကော ကျင့်သုံးတော်မူ၏

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ဓမ္မဒူတ၊ ပထမတွဲ ပထမအကြိမ်၊ ၁၉၈၅ ခု၊ ဒီဇင်ဘာလ စာ ၁၄၀-၁၄၁)

ဆရာတော်ကြီးနှင့်စပ်လျဉ်း၍ ရှေးအခါက စာအုပ်ထွက်ဖူး၏။ ထိုစာအုပ်၏အမည်မှာ အလွန်ဆန်း၏။ 'လူစွမ်းကောင်း'ဟု အမည်တပ်ထား၏။ စာမျက်နှာ နှစ်ရာကျော်ရှိ၏။ ၁၆ ချိုး စာအုပ်ကလေးဖြစ်၏။ ဟင်္သာတခရိုင်၊ လေးမျက်နှာမြို့ လေးထပ်ကျောင်း ဆရာတော် ဦးကုဋ္ဌရက ၁၃၁၄ ခုနှစ်၊ ကဆုန်လဆုတ် ၁၀ ရက်နေ့တွင် ရေးသားတော်မူခဲ့၍ ပြည်မြို့ ပြည်သူ့မေတ္တာ ပုံနှိပ်တိုက်တွင် ရိုက်နှိပ်သည်။

(ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ဓမ္မဒူတ၊ ပထမတွဲ ပထမအကြိမ်၊ ၁၉၈၅ ခု၊ ဒီဇင်ဘာလ စာ ၁၄၀)

၁၃၀၅ ခုနှစ်တွင် သီတင်းကျွတ်လအတွင်းက အတွေ့အကြုံအဖြစ်အပျက် တစ်ခုဖြစ်သော ပြိတ္တာဦးဖိုးဟန်အကြောင်းကို ဆရာကြီးဦးဌေးလှိုင်က ဖော်ပြထားကြောင်း သိရှိရပါသည်။ အထက်ပါ စာအုပ် စာမျက်နှာ ၁၄၁ - ၁၄၈ ကို ကြည့်ကြပါ။

၁၉၈၉ ဆရာတော်ကြီး၏ ဘွဲ့တော်မှာ ဦးဝိသုဒ္ဓါစာရဖြစ်သည်။ ဓနုဖြူဇာတိဖြစ်၏။ နန်းတော်ကုန်းရပ် မြေပိုင်ရှင် ဦးဖိုးကြူနှင့် ဒေါ်ရွှေအိတို့မှ မွေးဖွားသန့်စင်ခဲ့လေသည်။ ငယ်နာမည်မှာ မောင်သင်ဖြစ်လေသည်။ မွေးလေ၊ မွေးရက်ကို စုံစမ်း၍ မသိခဲ့ရသော်လည်း ၁၂၆၀ ပြည့်နှစ်၌ မွေးဖွားခဲ့ကြောင်းသိရသည်။

အသက် ၉ နှစ်အရွယ်တွင် ဓနုဖြူ ကျိုက်ကလွန်ဗွန်းစေတီအနီးရှိ ကျောင်းတွင် ပညာသင်ကြားခဲ့သည်။ နောက်တွင် ဓနုဖြူမြို့ ဝေလာဝေရာကျောင်းတွင် ရဟန်းအဖြစ် ခံယူလိုက်ကာ ဓနုဖြူမြို့ကထွက်၍ စလေမြို့ရှိ ဂူကိုးလုံး ဥမင်ကိုးပေါက်ရှိသည့် ဥမင်ဂူဆရာတော်ထံတွင် ပရိတ်တရားတော်များ သင်ယူပွားများခဲ့လေသည်။ ပရိယတ္တိ၊ ပဋိပတ္တိ တရားများကိုလည်း သင်ယူတော်မူခဲ့လေသည်။

ထိုမှတစ်ဆင့် ဘီးလင်း၊ ကျိုက်ထို၊ ကေလာသတောင်များသို့ ကျင့်ပွားပြန်လေသည်။ နောက်တွင် ပြည်မြို့သို့ ကြွလာလေသည်။ ရွှေဆံတော်စေတီတော်အား သွားရောက်ဖူးမြော်ပြီးနောက် မြင်ဗာဟု၊ ဘောဘောကြီး၊ ရဟန္တာရေကန်များသို့ လှည့်လည်ပြီး ကျင့်ကြံအားထုတ်ပြီးသည့်နောက် လက်ရှိနေရာ ဆေးရိုးချောင်သို့ ကြွရောက်လာကာ သစ်စေးပင်ကြီးအနီး အရိပ်အာဝါသ လျှောက်ပတ်သောနေရာတွင် ဇကောရ မာန်ပယ်ချလျက် မျှတစွာ သီတင်းသုံးတော်မူကာ စွမ်းစွမ်းတမံ ကျင့်ကြံတော်မူခဲ့သည်။



၁၉၃၄ ၁၂၉၆ ခုနှစ်၊ ဝါဆိုလတွင် ဒကာ၊ ဒါယိကာမများမှ ပင့်လျှောက်လွှန်းသဖြင့် ဖွတ်လည် တောင်ကျောင်းတွင် သီတင်းသုံးခဲ့သည်။ ၁၃၀၀ ပြည့်နှစ်၊ နယုန်လထဲတွင် အရာရာကို စွန့်လွှတ်လျှုဒါန်းကာ ငယ်ဆရာရင်း သံဃာတစ်ပါးအား ပင့်လျှောက်လှူဒါန်းကာ နေရင်းဖြစ်သော ဆေးရိုးချောင်တောင်ပေါ်သို့ မြန်းကြွသီတင်းသုံးလျက် တရားစခန်းဝင်ခဲ့လေသည်။

၁၉၆၁ ဤသို့ဖြင့် တရားစခန်း ဝင်နေဆဲပင် ကောဇာ ၁၃၂၃ ခုနှစ်၊ တပို့တွဲလဆန်း ၁၄ ရက်၊ တနင်္ဂနွေနေ့ ညဉ့် ၇ နာရီခန့်တွင် ပျံလွန်တော်မူခဲ့သည်။

ဆရာတော်လောင်းလျာ ကလေးဘဝဖြစ်တည်စ ကိုယ်ဝန်ရှိစဉ်ကပင် မိခင်ဖြစ်သူ ဒေါ်ရွှေအိမှာ ထူးခြားသော အိပ်မက်များ မြင်မက်ခဲ့လေသည်။ ကိုယ်အတွင်းမှ ကြာဖြူများ ထွက်လာသဖြင့် လူအများက တအံ့တသြ ငေးမောကြည့်ရှုခံနေရ၍ အနေရခက်နေကြောင်း မြင်မက်ပေသည်။ နောက်ဖြစ်ရပ်ထူးတစ်ခုမှာ ကလေးဘဝ မောင်သင် ပုခက်အတွင်း အိပ်ပျော်နေစဉ် မောင်သင်၏ ရင်ဘတ်ပေါ်တွင် ဂျိုး(ချိုး)ဝင်ဥနေသည်ကို ဈေးမှပြန်လာသည့် မိခင် ဒေါ်ရွှေအိက ပက်ပင်း မြင်တွေ့လိုက်ရခြင်းပင်ဖြစ်သည်။

နောက်ထူးခြားမှုတစ်ခုမှာ မပျံလွန်တော်မူခင် မှာကြားသွားချက်များ ဖြစ်ပါသည်။ ၎င်းမှာ တရားရှုမှတ်ရင်း အသက်ချုပ်သွားပါက အထိုင်မပျက်ထားရန် ရှေ့သို့ ငိုက်ကျလာပါက မေးဖျားအောက်မှ ဒေါက်ထောက်ထားရန်၊ မီးမသင်္ဂြိုဟ်ရန် မှာကြားခဲ့လေသည်။ သို့သော် တကယ်တမ်း ပျံလွန်တော်မူသောအခါ မလိုက်နာကြဘဲ ဆရာတော်ကြီး၏ ရုပ်ခန္ဓာအား အတင်းဖိ၍ လှန်ခြင်း၊ ရင်ကိုခွဲ၍ အူအသည်းများ ထုတ်ခြင်းများ ပြုလုပ်ခဲ့ရာ သွေးစိမ်းရှင်ရှင်များ ပန်းထွက်ခဲ့လေသည်။ ထို့အပြင် မိုးကာလမဟုတ်ဘဲ ပတ်ဝန်းကျင်သို့ မိုးကြိုးများပစ်ခတ်လေသည်။

ထိုအချက်ကြောင့် သင်္ဂြိုဟ်ရေးအစီအစဉ်ကို ဆက်လက်မဆောင်ရွက်ကြတော့ဘဲ ဝမ်းတွင်းမှ အူ အသည်း၊ အဆုတ် စသည်များကို မီးသင်္ဂြိုဟ်တော့သည်။ သို့သော် လောင်ကျွမ်းခြင်းမရှိဘဲ ပုံစံတစ်မျိုးအဖြစ် ပြောင်းလဲသွားပေရာ နားလည်သူများက ဓာတ်ချော်များဖြစ်သွားကြောင်း ဆိုလေသည်။ ထိုဓာတ်ချော်များကို ဖန်ပုလင်းတွင် ထည့်၍ ဆရာတော်ကြီး၏ ရုပ်ကလာပ်တော် ဦးခေါင်းရင်း၌ ယနေ့တိုင် ထားရှိလေသည်။

နောက်ထပ် ထူးခြားချက်တစ်ခုမှာ ပျံလွန်တော်မူပြီး ၃ နှစ် အကြာတွင် ရုပ်ခန္ဓာတော်အား ရွှေချရန်စီစဉ်ကြပြန်ရာ အိပ်မက်တောင်း၍ တားမြစ်ပြန်သဖြင့် မလုပ်ရဲဘဲရှိခဲ့ကြရာ ယနေ့တိုင် မပုပ်မသိုးဘဲ ရုပ်ခန္ဓာကိုယ်အလောင်းအဖြစ် လျောင်းစက်အနေအထားမပျက် ဖန်ခေါင်းတွင် ကြည်ညိုဖူးတွေ့နိုင်သည်ဟု မှတ်တမ်းတင်ထားကြောင်း ဖတ်ရှုသိရှိရပါသည်။

(ကျမ်းကိုး၊ ဦးကျော် (ပြည်) ၏ ပထမနန္ဒဝန်ဆရာတော်ကြီး၊ ပါရမီမဂ္ဂဇင်း၊ စက်တင်ဘာလ၊ ၂၀၀၁ ခုနှစ်၊ စာမျက်နှာ၊ ၃၇-၃၉ ကိုကြည့်ပါ။)

မျက်လုံးတော်အစုံနှင့်တကွ ဓာတ်တော်များ ကြွင်းကျန်တော်မူသည့်ပြင်

လက်ဆစ်ရိုးတော် ချိတ်ဆက်ဖြစ်နေသော ရဟန္တာအရှင်မြတ်ကြီး

# မိုးကုတ်ဆရာတော် ဦးဝိမလ

**အေဒီ ၁၈၉၉ – ၁၉၆၂ (၁၂၆၁ – ၁၃၂၄)**



တော်ဝင်မြို့



မိုးကုတ်ဆရာတော်ဘုရားကြီး၏ တစ်ဘဝ သာသနာလုပ်ငန်းရပ်များ စာအုပ်ကြီးကို ပြုစုတော်မူသော အရှင်ယောသိတ၏ စကားတော်အတိုင်း ပြန်ပြောပါမည်။

၁၉၆၂ ၁၃၂၄ ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၄ ရက်၊ ဗုဒ္ဓဟူးနေ့ နံနက် ၁ နာရီ မိနစ် ၂၀ တွင် ခန္ဓာဝန်ချခဲ့ပါသည်။ ထိုနှစ်ပြာသိုလဆန်း ၉ ရက်နေ့မှစ၍ ပြာသိုလပြည့်နေ့အထိ ခုနစ်ရက်တိတိကို ဈာပနပွဲကြီးကျင်းပ၍ ပူဇော်ခဲ့ပါသည်။ လပြည့်နေ့တွင် မီးသင်္ဂြိုဟ်ခဲ့ရာ လူထု ပရိသတ်များမှာ ၂ သိန်းနီးပါးမျှ ရှိခဲ့ပါသည်။ မီးသင်္ဂြိုဟ်သောအခါ ဖုတ်ပလ္လင်ပေါ်၌ အထူးကြပ်မတ်၍ သင်္ဂြိုဟ်ကြရာ ဓာတ်တော်များမှာ အလုံးလိုက်၊ အလုံးလိုက်ကျလာပါသည်။ အချို့မှာ အရိုးမကြေး၍ အတွဲလိုက်၊ အပြွတ်လိုက်သီတန်းကာ ဥ၍ နေပါသည်။

အရိုးတစ်ပိုင်း၊ ဓာတ်တော်တစ်ပိုင်း ရှိတာများကျသလို နွားနို့နှစ်ရောင်နှင့် အဝါရောင်များ လဲကျကြောင်းတွေ့ကြရကြောင်း ဆိုကြပါသည်။ အံ့သြဖွယ်ကောင်းသည်မှာ မီးသင်္ဂြိုဟ်ရာတွင် မီးမစွဲဘဲ သူငယ်အိမ်မပျက် တည်ရှိသော မျက်လုံးတော် အစုံပင် ဖြစ်ပါတယ်။ ချိတ်ဆက်နေသော လည်ဆစ်ရိုးတော်များကိုလဲ တွေ့ရခြင်းပင် ဖြစ်ပါတယ်။ ဓာတ်တော်များကို ဌာပနာ၍ မင်္ဂလာဓာတု ဓမ္မစေတီအဖြစ် တည်ထားကိုးကွယ်ထားတာကို တွေ့ခဲ့ရပါသည်။

မီးသင်္ဂြိုဟ်ရာတွင် အောက်ပါတို့ ကျန်ရှိသည်ကို ထူးခြားအံ့သြဖွယ်တွေ့ရသည်။

(၁) မီးမစွဲဘဲ သူငယ်အိမ်မပျက် တည်ရှိနေသော (အစိုဓာတ် မပြယ်သေးသော) မျက်လုံးတော်တစ်စုံ၊

(၂) ချိတ်ဆက်ဖြစ်နေသော လက်ဆစ်ရိုးတော်များ၊

(၃) အရိုးပိုင်းကလေးများတွင် တစ်ပိုင်းက (ငါးဥကလေးများကဲ့သို့) ဓာတ်တော် အလုံးကလေးများစုနေ၍ ကျန်အပိုင်းက အရိုးဓာတ်သက်သက်များ၊

(၄) အရိုးတော်မှဖြစ်သော အရွယ်အစား အရောင်အမျိုးမျိုးရှိသော ဓာတ်တော်များ၊

(၅) အသွေးတော်များမှ ဖြစ်သော အနီရောင်ဓာတ်တော်များ၊

(၆) သွားတော်များ၊ အံတော်များ

(ကျမ်းကိုး၊ တစ်ဘဝသာသနာ အရှင်ယောသိတ ရေးသားပြုစုသော မိုးကုတ်ဆရာတော်ဘုရားကြီး၏ တစ်ဘဝ သာသနာ လုပ်ငန်းရပ်များ စာအုပ်ကြီးကိုကြည့်ပါ။)

၁၈၉၉ ပထမမိုးကုတ်ဆရာတော်ကြီးကို မြန်မာသက္ကရာဇ် ၁၂၆၁ ခု၊ နတ်တော်လပြည့်ကျော် ၁၁ ရက်၊ ဗုဒ္ဓဟူးနေ့ စက်နာရီ ၂ နာရီနှင့် မိနစ် ၃၀ မှာ ဖွားမြင်ခဲ့ပါသည်။ ငယ်မည် မောင်လှဘော ဖြစ်သည်။ သားသမီး ၈ ဦးတွင် ပဉ္စမမြောက် သားရတနာ ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၃၃)

၁၉၀၉ အေဒီ ၁၉၀၉ ခု၊ ( ၁၂၇၁ ခုနှစ် ) ၄ နှစ်သားအရွယ်တွင် ဥယျာဉ်တော်ရွာ မူလတန်းကျောင်းအုပ် ဦးစံရ ထံတွင် အပ်နှံသည်။ ၄ တန်းအောင်သည်။

၁၉၁၂ အေဒီ ၁၉၁၂ ခု ( ၁၂၇၄ ခုနှစ်) အသက် ၉ နှစ်အရွယ်တွင် ဝွေးပင်တောရကျောင်း ဆရာတော်ထံ သာမဏေပြုသည်။ ဘွဲ့မှာ ရှင်ဝိမလဖြစ်၏။



၁၉၁၇ အေဒီ ၁၉၁၇ ခု ( ၁၂၇၉ ခုနှစ်) အသက် ၁၄ နှစ်အရွယ်တွင် ကြောက်မက်ဖွယ်ရာ ဝဲယက်ကြီးထဲ မျောပါသွားသည်။ ကယ်ဆယ်သူများ ကြောက်လန့်တကြား အော်ကြသည်။ သို့သော် ကိုရင်နှစ်ပါးက ကျုပ်တို့လေ့ ဘာမှမဖြစ်ပါဘူး ငြိမ်နေတာပဲဟု ပြန်ဖြေ၏။ အလွန်အံ့ဖွယ် ဖြစ်၏။

အသက် ကိုးနှစ်အရွယ်တွင် ရှင်သာမဏေ ဖြစ်ခဲ့ပြီး ရှင်ဝိမလ ဟူ၍ ဘွဲ့တွင်ခဲ့ပါသည်။ စာပေကျမ်းဂန် အရပ်ရပ်ကို ငယ်စဉ်ကပင် လေ့လာလိုက်စားကာ ဉာဏ်ရည်ထက်မြက်ခဲ့သဖြင့် အများ၏ ကြည်ညို လေးစားမှုခံရသလို၊ ဆရာသမားတို့၏ ချီးမြှောက်ခြင်းကိုလည်း ခံခဲ့ရပါသည်။

၁၉၁၉ အေဒီ ၁၉၁၉ ခု၊ ဇူလိုင်လ ၄ ရက်၊ သောကြာနေ့ (၁၂၈၁ ခုနှစ်၊ ဝါဆိုလဆန်း ၈ ရက်) အသက် ၂၀ ရှိသောအခါ မြင့်မြတ်သော ရဟန်းဘဝကို ရောက်ခဲ့ပါသည်။ ပဋိယတ္တိသာသနာကို အထူးပြုတော်မူခဲ့ပါသည်။

ရဟန်းသစ် ဦးဝိမလသည် သိမ်ကအထွက် ချွေးစိုနေသဖြင့် မကုဋကျောင်း၌ ခဏတဖြုတ် သင်္ကန်းလှန်းထားရာ မိနစ်ပိုင်းအတွင်းမှာ ပျားများ စုအုံပျံ့သန်းကာ အသိုက်လုပ်ကြ၏။ ဒုတိယအကြိမ် သင်္ကန်းပျားစွဲခြင်း ဖြစ်၏။

၁၉၂၀ အေဒီ ၁၉၂၀ ခု ( ၁၂၈၂ ခုနှစ်)တွင် အစ်မ ဖြစ်သူ ဒေါ်သုစာရီနှင့် စာသင်ဖက်ဖြစ်သော မိုးကုတ် ဒေါ်ဝိစာရီက သိမ်ထပ်မင်္ဂလာ ပြုလုပ်သည်။

ထိုအခါ အဘိဓမ္မာ ဆရာကြီး ဦးအုန်းက ဦးဝိမလအား မိမိကိုယ်စား အဘိဓမ္မာ ညဝါများ စမ်းသပ်ပို့ချခိုင်း၏။

၁၉၂၄ အေဒီ ၁၉၂၄ ခု ( ၁၂၈၆ ခုနှစ်)တွင် ကျောင်းထိုင် စာချစဖြစ်၏။ အဘိဓမ္မာ ညဝါများကို ပို့ချ၏။ တစ်နှစ်လျှင် သုံးကြိမ်စီ ပို့ချတော်မူရာ စာလိုက်သံဃာများ သုံးလေးရှိသဖြင့် ကျောင်းမလောက်၍ မဲဇယ်ပင်ရိပ်ခိုကာ စာအံစာကျက်ရ၏။

ဆရာကြီး လက်စမသတ်ခဲ့သော အဘိဓမ္မာတံခွန်ကျမ်းကြီးကို လက်စသတ် ရေးတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၃၅)

၁၉၂၄ အေဒီ ၁၉၂၄ ခု၊ ( ၁၂၈၆ ခုနှစ်)မှ စ၍ ဆောင်းတွင်း လေးလတွင် မင်းကွန်း မိုးကုတ်ချောင်၌ စာဝါ ပို့ချတော်မူသည်။

၁၉၂၉ အေဒီ ၁၉၂၉ ခု ( ၁၂၉၁ ခုနှစ် ) တွင် နှစ်စဉ် တပေါင်းလဆန်း ၈ ရက်နေ့တိုင်း ညောင်လေးပင် ပြည်လုံးချမ်းသာ ဘုရား၌ အဘိဓမ္မာတရား ဟောကြားခဲ့၏။

စစ်ကိုင်းတောင်ရိုး၊ ဇမ္ဗူပတိချောင် ဦးပဒုမ ဆရာတော်က ညွှန်ကြားသဖြင့် လာရောက်ပင့်ကြခြင်း ဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၃၆)

၁၉၃၂ အေဒီ ၁၉၃၂ ခု ( ၁၂၉၄ ခုနှစ် ) မှ စ၍ မိုးကုတ်သို့ နှစ်စဉ် ကြွရောက် တရားဟောတော်မူသည်။ ကျောင်းဒကာကြီး ဦးလယ် ဒေါ်သိုင်းခြုံတို့၏ လျှောက်ထားချက်အရ ဖြစ်၏။



၁၉၁၄ အေဒီ ၁၉၁၄ ခု ( ၁၃၁၆ ခုနှစ် )တွင် မင်္ဂလာတိုက်ကို ဒေါ်အုံး၊ ဒေါ်ဖုံတို့က ဆောက်၍လှူကြ၏။

အေဒီ ၁၉၄၁ ခု ( ၁၃၀၃ ခုနှစ် )မှ စ၍ ဒုတိယကမ္ဘာစစ်အတွင်း မိုးကုတ်၌ သီတင်းသုံးတော်မူသည်။

၁၁ နှစ်တိုင်တိုင် မိုးကုတ်၌သာ သီတင်းသုံးတော်မူ၍ မိုးကုတ်တိုက်ဟု တွင်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၃၉)

၁၉၄၅ အေဒီ ၁၉၄၅ ခု ( ၁၃၀၇ ခုနှစ် )တွင် ရန်ကုန်မြို့ ဗိုလ်တထောင်စေတီတော်၌ ရတနာစိန်ဖူးတော် တင်လှူခဲ့၏။

၁၉၅၂ အေဒီ ၁၉၅၂ ခု ( ၁၃၁၄ ခုနှစ်)မှ စ၍ တရားဟော တရားပြမှုကိုသာ ဦးစားပေးလျက် ပဋိပတ္တိ သာသနာပြုတော်မူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၄၀)

၁၉၅၄ အေဒီ ၁၉၅၄ ခု ( ၁၃၁၆ ခုနှစ် )တွင် ရုတ်တရက် မကျန်းမမာဖြစ်လာ၍ မန္တလေး ရွှေလှန်ရပ် ဦးချစ်ဆွေ၊ ဒေါ်မမတို့၏ ဝင်းခြံကြီးအတွင်း အိမ်တစ်အိမ်ကို ကျောင်း အဖြစ်လှူ၍ ဆရာဝန်များ၏ အကုအသခံတော်မူသည်။

၁၉၅၅ အေဒီ ၁၉၅၅ ခု ( ၁၃၁၇ ခုနှစ် )မှ စ၍ ထိုနေရာ၌ပင် တရားဟောတော်မူသည်။ နှစ်စဉ် နတ်တော်လမှ တပေါင်းလအထိ ညစဉ်တရားဟော၏။ လူ အဆမတန် များပြားလှ၏။ လမ်းရှင်းရဲများ ချထားရ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၄၁)

၁၉၆၀ အေဒီ ၁၉၆၀ ခု ( ၁၃၂၂ ခုနှစ်) တန်ခူးလတွင် ဆရာတော်၌ သွက်ချာပါဒ ဆီးချိုရောဂါစွဲကပ်၍ ခေတ္တ ပါးရွဲ့သွားသော်လည်း အမြဲတမ်းလမ်းလျှောက်ခြင်း၊ ချွေးငုပ်သည် ထင်လျှင် အခိုးပွင့်ဆေးသောက်ခြင်း စသည်ဖြင့် ကျန်းမာရေးကို ထိန်းထား၏။

ညအခါများတွင် ကျိန်းစက်သည်မရှိ။ အမြဲတရားထိုင်လျက်သာ တွေ့ရ၏ဟု သိရပါသည်။

၁၉၆၂ အေဒီ ၁၉၆၂ ခု၊ ဇူလိုင် ၈ ရက် (၁၃၂၄ ခုနှစ်၊ ဝါဆိုလဆန်း ၇ ရက်)ထဲတွင် အဂ္ဂ မဟာပဏ္ဍိတ ဘွဲ့တံဆိပ်ကို ရရှိတော်မူခဲ့ပါသည်။ သာသနာ့ရိပ်သာ ဖလ်ယဉ်မွှာရုံ၌ ဘွဲ့တံဆိပ်တော်ကို ခံယူတော်မူသည်။

( ကျမ်းကိုး၊ ဦးကျော် (ပြည်) မိုးကုတ်မြို့ မင်္ဂလာတိုက်ကျောင်းသို့ ရောက်ခဲ့စဉ်။ နဂ္ဂတ္တရောင်ခြည် မတ်လ ၂၀၀၃၊ စာ ၅-၇။)

၁၉၆၂ အေဒီ ၁၉၆၂ ခု (၁၃၂၄ ခုနှစ်၊ တော်သလင်းလပြည့်ကျော် ၂ ရက်နေ့)တွင် ရန်ကုန်မှ ဝန်ကြီးဟောင်းများ ဖြစ်ကြသော မြန်အောင် ဦးတင်၊ ဦးအောင်ဇံဝေနှင့် ကျားပျံ ဦးသန်းမောင်တို့အား အထူးဦးစားပေး ဟောပြောရာ -

'ခင်ဗျားတို့လဲ ကြီးကုန်ပြီ၊ ဘုန်းကြီးလဲကြီးပြီ။ နောက်ကို ဒီသာသနာ မရှိတော့ ဘူး။ ကွယ်တော့မယ်၊ ဘယ့်နှယ်ကြောင့် ကွယ်ရသတုံး ဘုရားလို့ မေးလို့ရှိရင် ကွယ်ချိန်



တန်လို့ ကွယ်တော့ပေါ့။ ရထားက ထွက်ခါနီးနေပြီ။ မီရုံကလေးပဲရှိတယ်'ဟု ဟောတော်မူသည်။ (ဒီသာသနာ ဟူသည် မိမိကိုယ်ကို တင်စား၍ ပြောခြင်းသာ ဖြစ်သည်)

၁၉၆၂ အေဒီ ၁၉၆၂ ခု (၁၃၂၄ ခုနှစ်၊ တော်သလင်း လပြည့်ကျော် ၄ ရက်နေ့ ) ရှင်ပြုကထိန်လှူပွဲအတွက် ၃ ရက်နေ့က အကြို ရေစက်ချ၍ အားပါးတရပင် တရားဟောတော်မူ၏။

## ပထမ မိုးကုတ်ဆရာတော်ဘုရားကြီး ခန္ဓာဝန်မချမီ

၁၉၆၂ ကောဇာသက္ကရာဇ် ၁၃၂၄ ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၄ ရက်နေ့တွင် ပျံလွန်တော်မူသော မိုးကုတ်ဆရာတော်သည် မပျံလွန်မီ ၃ ညဉ့်သန်းခေါင်ယံ အချိန်တွင် တစ်စုံတစ်ယောက်နှင့် စကားပြောနေသံကို ဆရာတော်၏ အခန်းအပြင် ဘက်နား၌ စောင့်အိပ်နေသူများက ကြားကြရ၏။ အခန်းတွင်းမှ အလင်းရောင်များ ပေါ်ထွက်လာသည်ကိုလည်းတွေ့ကြရ၏။ တံခါးဖွင့်ကြည့်လိုက်သောအခါတွင် ဆရာတော် တရားထိုင်လျက်ချည်းသာ တွေ့ကြရ၏။

**'ဆရာတော် ဘယ်သူနဲ့ စကားပြောနေပါသလဲ ဘုရား၊ ခုနက အလင်းရောင်ကြီးကိုလည်း မြင်လိုက်ရတယ်'ဟု ဒကာ ဦးလှဘူးက လျှောက်ထား၏။ လှဘူးရာ မင်းသိသားပဲဟုသာ ဆရာတော် မိန့်တော်မူ၏။**

ဦးလှဘူးသည် စိတ်ထဲတွင် မတင်မကျ ရှိသော်လည်း ထပ်၍ မလျှောက်ရဲဘဲ အခန်းပြင်သို့ ထွက်ခဲ့ရရှာ၏ဟု သိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း။ စာ ၆၄၅)

၁၉၆၂ အေဒီ ၁၉၆၂ ခု (၁၃၂၄ ခုနှစ် ၊ သီတင်းကျွတ်လပြည့်ကျော် ၄ ရက်၊ ဗုဒ္ဓဟူးနေ့) သည် ဆရာတော်၏ နောက်ဆုံးနေ့ဖြစ်၏ သိရပါသည်။

ဤတွင် ဒေါ်လှတင်ဆိုသူသည် ကော်ဖီလာကပ်၏။ ထိုအခါ ဆရာတော် ဘုဉ်းပေးနေစဉ် ဒေါ်လှတင်အား ဆရာတော်က အောက်ပါအတိုင်း မေးမြန်းသည်ဟု သိရပါသည်။

တင်လှ၊ ခုရက်ပိုင်း၊ နင် အိပ်မက်များ ထူးထူးထွေထွေ မမက်ဘူးလားဟု မေးတော်မူ၍ ရိပ်သာထဲမှ စေတီကြီး တစ်ဆူအနီး၌ ဆရာတော် တရားရှုမှတ်နေရာ စေတီကြီးမှာ မီးခိုးအူ၍ ဖောင်းရစ်မှ တအိအိ ပြိုကျလာရာ ဆရာတော့်အပေါ်၌ ပိကျသော်လည်း ဆရာတော်မှာ မည်သို့မျှ မဖြစ်ကြောင်းလျှောက်ထားသည်။

ဟ နင့်အိပ်မက် တယ်စင်းပါလား၊ ပုဗ္ဗနိမိတ် ဆိုတာ ဒီလိုပဲဖြစ်ပေါ်စမြဲပဲ။ ငါ့လို ခံနိုင်ရည်ရှိအောင် တရားကို နာနာဖိပြီး အားထုတ်ရစ်ကြဟု အမိန့်ရှိကာ ခဏစောင့်ဦးဟု မိန့်တော်မူ၍ အခန်းတွင်းသို့ကြွသွား၏။ ပြီးလျှင် သက်န်းလဲကာ စောစောက ဝတ်ထားသော ဧကသီ၊ သင်းပိုင်နှင့် အံသကိုင်္ခနှစ်ထည်ကို ကိုင်၍ ထွက်လာ၏။

ရော့ ဒီသင်္ကန်းတွေ နင့်ဇရပ်ယူသွား၊ သိမ်းထား၊ ရေမလျှော်နဲ့ဟု ပေးတော်မူလိုက်သည်။ ဒေါ်တင်လှ ခမျာ ဇဝေဇဝါဖြင့် ဘာမျှ ပြန်မလျှောက်ရဲဘဲ သင်္ကန်းများကို ယူ၍ မိမိဇရပ်သို့သာ ပြန်လာခဲ့ရရှာ၏။



ထိုနေ့ ၁၁ နာရီခွဲတွင် ကော်ဖီနှင့် စွပ်ပြုတ် ဘုဉ်းပေးတော်မူ၏။ ဆရာတော် သုံးပါးနှင့်အတူ ဘုဉ်းပေးပုံကို ဓာတ်ပုံရိုက်ခံတော်မူသေးသည်။

မိုးကုတ်ဆရာတော် မပျံလွန်မီညဥ့်၌ ဆရာတော်၏ကျောင်းပေါ်သို့ အလင်းရောင်ကြီးကျဆင်းလာပြီးလျှင် မကြာမီ အလင်းရောင်ကြီး ဝင်းခနဲ ပြန်တက်သွားသည်ကို လူအများပင်မြင် တွေ့ကြရ၏။

(ကျမ်းကိုး၊ ဒေါက်တာမင်းတင်မွန်၊ ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ် တော်ကူးဆရာတော်၊ ဘဝဆည်း ဆာနှင့် ကျင့်စဉ်တရား၊ တတိယအကြိမ်၊ မြမွန်ရတနာ စာပေ၊ ၁၉၉၁ ခု၊ ဖေဖော်ဝါရီလ၊ ဆန်းမြသီဂီပုံနှိပ်တိုက်၊ စာ ၁၄၃ )

## ဓာတ်တော်များ တဖွားဖွားကျသော တတိယ မိုးကုတ်ဆရာတော် ဦးတေဇိန္ဒ၏ ဓာတ်တော်များ

မိုးကုတ်ဆရာတော်ဘုရားကြီး မရှိသည့်နောက် ဒုတိယ မိုးကုတ်ဆရာ တော်မှာ ဦးနရိန္ဒဖြစ်ပါသည်။ တတိယ မိုးကုတ်ဆရာတော်ကြီး ဦးတေဇိန္ဒ ဖြစ်ပါသည်။

တတိယ မိုးကုတ်ဆရာတော် ဦးတေဇိန္ဒကိုယ်တော်ကြီး ခန္ဓာဝန်ချ၍ မီးသင်္ဂြိုဟ်ပူဇော်ခဲ့သောအခါမှာလည်း တချို့မှာ အရိုးအတိုင်းသာတွေ့ရပြီး အချို့ အဝက်မှာ ဓာတ်တော်များ ကြွင်းကျန်ကြောင်း သိရှိရပါသည်။

ကြွင်းကျန်သော ဓာတ်တော်များနှင့်အရိုးတချို့ကို မင်္ဂလာတိုက် ကျောင်းတွင် ယနေ့တိုင် ပူဇော်ထားရှိပါသည်။ မင်္ဂလာတိုက်ကျောင်းသည် မိုးကုတ်မြို့ ထင်းရှူးခြံအရပ်တွင် တည်ရှိပါသည်။

ထိုဆရာတော်၏ ခွင့်ပြုချက်ဖြင့် တတိယ မိုးကုတ်ဆရာတော်၏ ကြွင်းကျန်သော ဓာတ်တော်များကို ဖူးမြော်ရပါသည်။

## စတုတ္ထ မိုးကုတ်ဆရာတော်

စတုတ္ထမိုးကုတ်ဆရာတော်ဘုရား ဆက်ခံလျက်ရှိ၏။ ဘွဲ့တော်မှာလည်း ဦးဝိမလ ဖြစ်၏။ ၂၀၀၃ ခုနှစ်တွင် သက်တော် ၅၈ နှစ်၊ သိက္ခာတော် ၃၈ ဝါ ရရှိနေပြီး ဖြစ်၏။

## မြိုင်မြို့ ဇီးတောဆရာတော် ရဟန်းကိစ္စ ပြီးမြောက်တော်မူခြင်း

မိုးကုတ်ဆရာတော်ကြီး ဥပနိဿယအတိုင်း အားထုတ်၍ ရဟန်း ကိစ္စ ပြီးမြောက်တော်မူသော မြိုင်မြို့ ဇီးတောဆရာတော်ကြီးအကြောင်း မဟာ ထေရုပ္ပတ္တိမှာလည်း လွန်စွာကြည်ညိုဖွယ်ဖြစ်ပါသည်။

(ကျမ်းကိုး၊ မဇ္ဈိမစရိယ ဦးဌေးလှိုင် ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ ၁၉၉၃ ခု၊ နဝမအကြိမ် ပုံနှိပ်ခြင်း၊ ဗုဒ္ဓအသံ စာပေ၊ စာ ၆၂၉- ၆၄၈)

ကျောက်သားပကတိဖြစ်သွားသော ရဟန္တာ

# ရွှေဘို ကျောက်ဖြစ်ဆရာတော် အရှင်နရိန္ဒာဘိ

အေဒီ ၁၈၉၉ – ၁၉၆၃ (၁၂၆၁ – ၁၃၂၅)





ရွှေဘိုမြို့တွင် အလွန်ထူးဆန်းသော ရဟန္တာကိုယ်တော်မြတ်ကြီး တစ်ပါးရှိကြောင်း ၎င်း၏ ကျောက်ဖြစ်ရုပ်ကြွင်း ရုပ်ကလာပ်တော်ကြီးမှာ ယနေ့တိုင် ဖူးမြော်နိုင်သေးကြောင်းကို တောင်တန်း သာသနာပြု ဆရာတော်သုရားကြီး ဦးဥတ္တမသာရကိုယ်တော်တိုင် ဟောကြားတော်မူရာ ရွှေဘို ကျောက်ဖြစ်ဆရာတော်၏ သတင်းမှာ ချက်ချင်းပြန့်နှံ့သွားပါသည်။

(ကျမ်းကိုး။ ကျောက်ဖြစ် ဆရာတော်ကြီး၏ ဘွဲ့တော်မှာ အရှင်နရိန္ဒာဘိဖြစ်၏။ ထိုဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိ ကျင့်စဉ်များကို မန္တလေးမြို့ သကျသီဟ ဘုရားအနီး ခင်မကန်တိုက်တွင် စုံစမ်းသိရှိနိုင်သည်ဟု သိရှိရပါသည်။)

ရွှေဘိုမြို့တွင် စေတီ ၉ ဆူ ကိန်းဝပ်တော်မူသော ရင်းတော်ကုန်းဟူ၍ ရှိ၏။ ထိုကုန်းတော်ပေါ်တွင် ဆရာတော်အရှင်နရိန္ဒာဘိ၏ ကျောက်ဖြစ်ရုပ်ကလာပ်တော်ကြီးကို တန်ဆောင်းနှင့်တကွ ပူဇော်ထားကြောင်း သိရှိရပါသည်။

ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်အခါက ဆရာတော်ကြီး၏ တပည့်အရင်းအခြာ တစ်ဦးမှာ ဦးကြုတ်ဆိုသူဖြစ်ကြောင်း သိရပါသည်။ ထိုဦးကြုတ်သည် မင်းကုန်းရွာသူကြီး ဖြစ်သည်ဟုဆိုပါသည်။ အလွန် မူးယစ်မိုက်မဲသည်ဟုဆိုပါသည်။ ထိုဦးကြုတ်ကို ဆရာတော်က ကယ်ဆယ် မ,စ ချွတ်တော်မူသည်ဟု ဆိုပါသည်။ ဦးကြုတ်အနေဖြင့်လည်း ဆရာတော်၏ တရားအဆင့်အတန်းကို ဘာမှန်းမသိဟု ဆိုပါသည်။ သို့သော်လည်း ဆရာတကာ ကြည်ညိုစွာဖြင့် ကာလရှည်စွာ သာသနာပြုခဲ့သည်ဟု ဆိုပါသည်။

## ရေမမျှောရန် မီးမသင်္ဂြိုဟ် ဂူမသွင်းရန် မှာခဲ့

ဆရာတော်က မိမိပျံလွန်တော်မူပါက ရေမမျှောရန် မီးမသင်္ဂြိုဟ်ရန် ဂူမသွင်းရန် ဘာမှမလုပ်ရန် မှာကြားသည်ဟုဆိုပါသည်။ ထိုအချက်ကို ဦးကြုတ်ကလည်း အဓိပ္ပာယ်ကွဲကွဲပြားပြား မသိဟု ဆိုပါသည်။

၁၉၆၃ ဤသို့ဖြင့် အေဒီ ၁၉၆၃ခု၊ ဧပြီလ ၃ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၂၅ ခု၊ နှောင်းတန်ခူးလဆန်း ၁၀ ရက်နေ့) တွင် သက်တော် ၆၄ ဝါတော် ၄၅ ဝါ၊ ရောက်ရှိပြီးဖြစ်သော ဆရာတော်သည် ခန္ဓာဝန်ချတော်မူပါသည်။ နေရာမှာ မန္တလေးမြို့တွင် ဖြစ်ပါသည်။

ထိုအခါ ဆရာတော် မှာကြားတော်မူသည့်အတိုင်းပင် ဦးကြုတ်သည် ဆရာတော်ကို သွား၍ ပင့်သည်ဟု သိရပါသည်။ ထိုအခါ ဦးကြုတ်၏ အပြောအရ အလွန်ဆန်းသဖြင့် ဈာပနကျင်းပရေးအဖွဲ့နှင့် သဘောထား ကွဲလွဲကြသည်ဟု သိရပါသည်။ သူနိုင်ကိုယ်နိုင် မဲနှိုက်၍ အဖြေရှာကြရာ ဦးကြုတ်ကပင်လျှင် သုံးကြိမ်တိုင်တိုင် အနိုင်ရလေသည်ဟု ဆိုပါသည်။

ထို့ကြောင့် ဦးကြုတ်၏ ဆန္ဒအတိုင်း ရွှေဘိုမြို့ ဉသျှစ်ကုန်းရွာ စေတီ ၉ ဆူ ကုန်းတော်သို့ ဂူသွင်း သင်္ဂြိုဟ်ခဲ့သည်ဟု သိရှိရပါသည်။ ဤသို့ ပြုလုပ်ရသည်မှာလည်း ဦးကြုတ်သည် ဆရာတော်ကို ကြည်ညိုသော်လည်း ဆရာတော်၏ ဈာပနကိစ္စ အမှာစကားတော်ကို ယုံကြည်မှု ကြီးမားလှသည် မဟုတ်သောကြောင့် ဖြစ်သည်ဟု ဆိုပါသည်။

## အိပ်မက်အရ ဂူကိုဖွင့်

သို့နှင့် ၃ လ လောက်ကြာသွားပါသည်။ ဆရာတော်ကိုလည်း ဂူသွင်းသင်္ဂြိုဟ်ထားခဲ့ပါသည်။ ထိုအခါ ဂူကိုဖွင့်ပြီး ဖူးမြော်ပါဟု အိပ်မက် မက်သည်ဟု ဆိုပါသည်။ သို့နှင့် အိပ်မက်အရ တူးဖော်ကြည့်



ကြာရာ ပုပ်သိုးခြင်းမရှိသည့်အပြင် ရုပ်ကလာပ်တော်မှာ မွှေးကြိုင်နေသဖြင့် ထူးဆန်းလွန်းသောကြောင့် ဗိမာန်တန်ဆောင်း ဆောက်လုပ်ပြီးလျှင် ပြောင်းရွှေ့အပူဇော်ခံထားသည်ဟု ဆိုကြပါသည်။

## ဆံပင်များ ရှည်လာ

ဤသို့အားဖြင့် ရုပ်ကလာပ်တော်ကြီးကို ပူဇော်ထားသည်မှာ နှစ်ပေါင်း ၂၅ နှစ် ကြာခဲ့ကြောင်း သိရှိရပါသည်။ ထိုအတောအတွင်းမှာလည်း ဆံပင်များရှည်လာသဖြင့် မကြာခဏ ဆိုသလိုပင် ရိတ်ပေးရသည်ဟု သိရှိရပါသည်။ လက်သည်းများမှာလည်း ရှည်၍ရှည်၍ လာသဖြင့် မကြာခဏ ညှပ်၍ညှပ်၍ ပေးရသည်ဟုဆိုပါသည်။ ဤသို့ဖြင့် နှစ်ပေါင်း ၂၅ နှစ် ကြာခဲ့ပါသည်။

## တဖြည်းဖြည်း ကျောက်သားအဖြစ်သို့ ပြောင်းလဲ

ထို့နောက်ပိုင်းတွင်ကား ရုပ်ကလာပ်တော်မှာ တဖြည်းဖြည်းအားဖြင့် ကျောက်သားအဖြစ်သို့ ပြောင်းလဲလာသည်ဟု ဆိုပါသည်။ ယခုအခါ ရုပ်ကလာပ်တော် တစ်ခုလုံးမှာ နှုတ်ခမ်းတော် မျက်လုံးတော် အကြောအမျှင်များမှစ အားလုံးလိုလိုပင် ကျောက်သားပကတိ ကျောက်အတိ ဖြစ်သွားပါတော့သည်။

## ကျောက်ဖြစ်သွားသော ရုပ်ကလာပ်တော်ကြီး

ဤသို့အားဖြင့် ကျောက်ဖြစ်သွားသော ရုပ်ကလာပ်တော်ကြီးကို လူအပေါင်းတို့သည် အလွန်ကြည်ညိုကြသဖြင့် အချို့ကလည်း အုန်းပွဲ ငှက်ပျောပွဲ၊ ကန်တော့ပွဲများအပြင် ဆွမ်းခဲဖွယ် စုံလင်စွာ လာရောက် ပူဇော်သူများပင်ရှိပါသည်။

၁၉၆၃ ကျောက်ဖြစ်ဆရာတော်ကြီးသည် အေဒီ ၁၉၆၃ ခု (၁၃၂၅ ခုနှစ်)တွင် ခန္ဓာဝန်ချတော်မူကြောင်း သိခဲ့ပြီးဖြစ်ပါသည်။

၁၉၈၈ အေဒီ ၁၉၈၈ ခု (၁၃၅၀ ခုနှစ်)တွင် ကျောက်သား ပကတိဖြစ်သွားခဲ့ကြောင်းလည်း သိခဲ့ပြီးဖြစ်ပါသည်။

၁၉၇၅ ၎င်းနောက် တပည့်ဖြစ်သူ ဦးကြုတ်သည်လည်း အေဒီ ၁၉၇၅ ခု၊ ဧပြီလ ၁၄ ရက်၊ တနင်္လာနေ့ (၁၃၃၇ ခု၊ တန်ခူးလဆန်း ၄ ရက်နေ့)တွင် ကွယ်လွန်ခဲ့ပါသည်။ ဦးကြုတ်၏ အရိုးဂူကိုလည်း ရွှေဘိုဆရာတော်၏ ဂူဗိမာန်ရှေ့၌ ပြုလုပ်ထားခဲ့ပါသည်။

## ထူးဆန်းသော တပည့်တစ်ဦး

၁၉၉၂ ထိုဆရာတော်ကြီးတွင် တပည့်တစ်ဦး ရှိ၏။ ထိုတပည့် ဦးပဥ္စင်းမှာ ဦးကုမာရ ဆိုသူဖြစ်ပါသည်။ ထိုတပည့် ဦးပဥ္စင်းသည် အေဒီ ၁၉၉၂ ခု (၁၃၅၄ ခု၊ တပို့တွဲလဆန်း ၄ ရက်နေ့) ၌ ပျံလွန်တော် မူခဲ့ပါသည်။ ထိုအခါ သက်တော် ၆၄ နှစ်၊ ဝါတော် ၄၅ ဝါ၊ ရှိပြီး ဖြစ်ပါသည်။



## ရုပ်ကလာပ်တော်မှ သွေးများ ယိုစီးခြင်း

ထူးဆန်းသည်မှာ ထိုဦးပဋ္ဌင်း ပျံလွန်တော်မူပြီးနောက် လအတော်အတန်ကြာအောင် မပုပ်မသိုးရှိနေခဲ့ပါသည်။ ၅ လ ကြာသောအခါ ဦးခေါင်းတော်မှာ သွေးပုပ်များ ယိုစီးကျလာသဖြင့် မီးသင်္ဂြိုဟ်ပြီး အရိုးဂူပြုလုပ် ပူဇော်ထားရှိကြပါသည်။

## ဗိမာန်ရှေ့က ဂူနှစ်ဂူ

ထို့ကြောင့် ယခုအခါ ရွှေဘိုကျောက်ဖြစ် ဆရာတော်ကြီး၏ ရုပ်ကလာပ်တော် ဗိမာန်ရှေ့တွင် ဂူနှစ်ဂူကို တွေ့ရှိနိုင်ပါသည်။ ဂူတစ်ဂူမှာ တပည့်ရင်းဖြစ်သူ ဦးကြုတ်၏ဂူဖြစ်၏။ အခြား ဂူတစ်ဂူမှာ တပည့် ဦးပဋ္ဌင်း၏ဂူဖြစ်၏။

## သိမ် ပန္နက်တိုင်များအားလုံး ကျောက်သား ပကတိ ဖြစ်သွား

ထူးဆန်းသောအချက်မှာ ဆရာတော်ဘုရားကြီး ပျံလွန်တော်မူကာနီးတွင် ဘုရားကိုးဆူ ကုန်းတော်ပေါ်တွင် သိမ်ဆောက်ရန် ပန္နက်နိမိတ်တိုင်များ စိုက်ထူခဲ့ရာ ထိုနိမိတ်တိုင်များမှာ အလယ်တိုင်သည် အုန်းသားငုတ်တိုင်ဖြစ်၏။ ဘေးနှစ်ဖက်က တိုင်နှစ်တိုင်မှာ တမာသား ငုတ်တိုင်များ ဖြစ်ကြသည်။ စုစုပေါင်း တိုင်ငုတ်ပေါင်း သုံးငုတ်ရှိ၏။

၁၉၈၈ ထူးဆန်းသောအချက်မှာ အေဒီ ၁၉၈၈ ခု (၁၃၅၀ ခုနှစ်) တွင် ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်တစ်ခုလုံး ကျောက်အတိ ဖြစ်သွားသောအခါ ထိုသိမ်တိုင်ငုတ် သုံးငုတ်သည်လည်း တမာငုတ် အုန်းသားငုတ်များ မဟုတ်တော့ဘဲ ကျောက်သားပကတိ စစ်စစ်ကြီး ဖြစ်သွားပါသည်။ အလွန်အံ့ဩဖွယ်ရာများဖြစ်ပါသည်။

(ကျမ်းကိုး။ (၁) ဇင်ညိုငယ်၊ ရွှေဘိုမှ ကျောက်ဖြစ်ဆရာတော်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၄ ခု၊ ဇန်နဝါရီ။ စာ၄၉ - ၅၁။ (၂) ကျမ်းကိုး၊ တောင်တန်းသာသနာပြု ဦးဥတ္တမသာရဆရာတော်ကြီး၏ ဟောပြောချက်)

မင်းကုန်း ဥသျှစ်ကုန်းအနီး ဘုရားကိုးဆူကုန်းတော်တွင် ဆရာတော်ဦးနရိန္ဒာဘိ ကျောက်ဖြစ်ရုပ်ကလာပ်တော်ကို ပူဇော်ထားလေသည်ဟု သိရပါသည်။ ထေရုပ္ပတ္တိနှင့် ကျင့်စဉ်အသေးစိတ်ကို သိလိုလျှင် မန္တလေးမြို့ သကျသီဟဘုရားအနီး ခင်မကန်တိုက်တွင် မေးမြန်းစုံစမ်း လေ့လာနိုင်သည်ဟု သိရပါသည်။

ရုပ်ကလာပ်တော်ကို ယနေ့တိုင် ဖူးမြော်နိုင်သေးသော

# ပြည်မြို့ မုဒ္ဒောဆရာတော်ကြီး ဦးဉာဏဝံသ

အေဒီ ၁၈၉၉ – ၁၉၈၇ (၁၂၆၁ – ၁၃၄၈ )





ပဲခူးတိုင်းဒေသကြီး ပြည်မြို့နယ်တွင် မုဋ္ဌောရွာဟူ၍ရှိသည်။ မုဋ္ဌောရွာသည် မှော်ဇာကျေးရွာ၏ အရှေ့ဘက်တွင် ရှိ၏။ မှော်ဇာနှင့် တစ်မိုင်လောက်ဝေး၏။ မှော်ဇာနှင့် ပြည်သည် ၄ မိုင်လောက်ဝေး၏။ ထိုမုဋ္ဌောရွာ ကျောင်းတွင် လွန်ခဲ့သော နှစ်ပေါင်း ၂၀ ကျော်က ပျံလွန်တော်မူခဲ့သော မုဋ္ဌောဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို ယနေ့တိုင် ဖူးမြော်နိုင်ပါသေးသည်ဟု သိရှိရပါသည်။

ဆရာတော်ကြီးမှာ ကောင်းကင်မှာ ဖူးတွေ့ရကြောင်း ထိုစဉ်က အကျော်တစောရှိခဲ့ပါသည်ဟု သိရပါသည်။ ဆရာတော်ကြီး သက်တော် ၈၀ ကျော် အရွယ်တော်သို့ ရောက်သောအခါ အလွန် ထူးခြားစွာ ကျော်စောခဲ့ပါသည်။ ထိုနှစ်များ မတိုင်မီကသော်ကား ထိုရွေ့ ထိုမျှ သတင်းထူးသည်ဟု မသိခဲ့ရပါ။

ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က ဆွမ်းစားချိန်မှလွဲ၍ ကျန်အချိန်များတွင် အိပ်စက်နေဟန်တူကြောင်း လဲလျောင်းလျက်သာ နေလေ့ရှိကြောင်း သိရှိရပါသည်။ သို့သော်လည်း ညအခါများတွင်ကား တစ်ညလုံး မအိပ်စက်ဘဲ တရားအလုပ်ကို ပြုလုပ်ခဲ့ကြောင်း သိရှိရပါသည်။

ဆရာတော်ကြီးကို ကောင်းကင်မှာ ဖူးတွေ့ရသည်ဟု အုန်းအုန်းကျွတ်ကျွတ် ဖြစ်စဉ်ကပင် ဆရာတော်ကြီးသည် ထိုသတင်းနှင့်စပ်လျဉ်း၍ မည်သို့မှ မိန့်ကြားတော်မမူခဲ့ပါ။

ဆရာတော်ကြီး ငယ်စဉ်အခါကတည်းက အလွန်ချစ်ခင်ကြည်ညိုသူ ပေါ်များကြောင်း ပြောဆိုကြပါသည်။ ငယ်စဉ်ဘဝကတည်းက သိမ်မွေ့သော ဉာဏ်နှင့်တကွ ညင်သာပျော့ပျောင်းသော စရိုက်လက္ခဏာရှိကြောင်း မှတ်မိသူများက ပြောပြကြပါသည်။ စိတ်ဆိုးစရာကိစ္စများ ကြုံလာသောအခါများမှာလည်း ဘာမျှပြောဆိုလေ့မရှိဘဲ သင်္ကန်းကို ခေါင်းမြီးခြုံ၍သာနေကြောင်း သိရှိရပါသည်။

ထိုမုဋ္ဌောကျောင်းတွင် လက်ရှိကျောင်းထိုင်ဆရာတော်မှာ ဦးကုန္ဒာစာရ ကိုယ်တော်ကြီးဖြစ်ပါသည်။ ထိုဆရာတော်ကြီးသည် သက်တော် ၆၄ နှစ်၊ ဝါတော် ၄၄ ဝါ ရှိပြီ ဖြစ်ပါသည်။ မူလ ပထမ မုဋ္ဌောဆရာတော်ကြီး ဦးဉာဏဝံသ လက်ထက်ကတည်းက တပည့်အရင်းအချာဖြစ်ကြောင်း သိရှိရပါသည်။

၁၉၈၇ လက်ရင်းကျကျ တပည့်ကြီးဖြစ်သော လက်ရှိဆရာတော်ကြီး၏ ပြောကြားချက်အရ သိရှိရသည်မှာ ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေးသော မုဋ္ဌောဆရာတော်ကြီးသည် အေဒီ ၁၉၈၇ ခု၊ မတ်/ ဧပြီလ (၁၃၄၈ ခု၊ တန်ခူးလ)တွင် ခန္ဓာဝန်ချတော်မူကြောင်း ထိုစဉ်က သက်တော် ၈၇ ၊ ဝါတော် ၆၇ ဝါ ရှိပြီးဖြစ်ကြောင်း၊ သိရှိရပါသည်။ ထိုမျှသာသိရပါသည်။

(ကျမ်းကိုး။ ဦးကျော်နိုင်ကြီး၊ သွားရောက်ဖူးမြော်ဖြစ်သော မုဋ္ဌောဆရာတော်ကြီး၏ ရုပ်ကလာပ်တော်၊ ပါရမီမဂ္ဂဇင်း၊ ၂၀၀၁ ခု ဩဂုတ်လ စာ ၁၀၁ - ၁၀၂ )

ရဟန်းထူး

# တွံတေး ဗောင်းတော်ချုပ်ဆရာတော်

**ခအေဒီ ၁၉၀၄ – ၁၉၈၉ (၁၂၆၁ – ၁၃၄၆ )**





ယခင်ကလည်း ဖောင်းတော်ချုပ်ဆရာတော်အကြောင်းကို ဆရာစန္ဒ၏ ကောင်းမှုကြောင့် သိခဲ့ရပါသည်။ ဆရာစန္ဒ၏ အကြိုမိတ်ဆက်မှုကြောင့် ကြားသိရသမျှ ပြန်ပြောလျှင် ပို၍ပြည့်စုံပါလိမ့်မည်။ နားဆင်ကြည့်ပါဦး။

ဆရာတော်သည် ကရင်လူမျိုးဖြစ်သည်။ မူလက ဗုဒ္ဓဘာသာဝင် မဟုတ်ချေ။ ဆရာတော်သည် ဆယ်တန်းအောင်ပြီးသောအခါ မြေတိုင်းဌာနၠ် အလုပ်လုပ်သည်။ ခန့်မှန်းခြေ အသက် ၂၅ နှစ် လောက်တွင်ဖြစ်သည်။ တစ်နေ့သောအခါ ပေကြိုးကြီး တစ်ခုကို တိုင်းထွာပြီးရစ်သည်။ မြန်မြန်ရစ်လိုက်သဖြင့် ပေကြိုးသည် မျက်စိနှစ်ဖက်လုံးကို ရိုက်ခတ်သွားရာ မျက်စိနှစ်လုံးစလုံး ကွယ်သွားသည်။

ထိုအခါ ဆရာတော်သည် ကြံရာမရသဖြင့် မည်သို့မျှ မတတ်နိုင်ဖြစ်နေသည်။ ဆရာဝန်များလည်း ကု၍မရ ဆေးပေါင်းလည်းစုံသည်။ သို့ရာတွင် ဆရာတော်၏ ရှေးကုသိုလ်ပါရမီရှိသည်။ သူ၏ နားထဲတွင် မင်းသည် ဗုဒ္ဓဘာသာဝင်ပါ။ ရဟန်းပြုပါ။ ဤကဲ့သို့ ရဟန်းပြုလျှင် မင်း၏ မျက်လုံးအလင်းရ၍ ကောင်းလာလိမ့်မည်။ သာသနာ့လည်းပြုရလိမ့်မည်ဟု မကြာခဏ နားထဲ၌ ကြားနေသည်။

သုံးလလောက် ကြာသောအခါ မယုံ၍ မဖြစ်တော့သောကြောင့် မအူပင်မြို့ အနီးရှိ မီးသွေးချောင်းရွာ ဆရာတော်၏ကျောင်းသို့သွား၍ ဗုဒ္ဓဘာသာအဖြစ် ခံယူသည်။ ရဟန်းပြုတော်မူသည်။ ရဟန်းပြုပြီးနောက် သုံးလကြာသောအခါ မျက်စိပြန်၍ မြင်သည်။ ထိုအခါ အနောက်ရိုးမတောင်၌ နေတော်မူသော ရက္ခန်းစင်တောင် ဆရာတော်ဘုရားက သူ့အား သာသနာပြုရန် ပညာရပ်အမျိုးမျိုး သင်ကြားပေးသည်။

ဆရာတော်သည် ရဟန်းပြုပြီးနောက် မိတ်ဆွေတစ်ဦးကလည်း ရှင်သာမဏေ ဝတ်ပြီးလျှင် ဆရာတော်နှင့်အတူလာနေသည်။ ကျိုက်ထီးရိုးတောင်ခြေရှိ တရားကျောင်းတစ်ကျောင်းတွင် သီတင်းသုံး၍ တရားအားထုတ်သည်။ ပုတီးစိပ်သည်။ တောထဲတွင် ဘာမျှမစားစရာမရှိ။ အတူပါသော ကိုရင်ကြီးက ရေအိုင်ထဲမှ ရသော ကန်စွန်းရွက်များကို နေ့စဉ် ပြုတ်၍ကပ်သည်။ ဤကန်စွန်းရွက်နှင့်ပင် နှစ်ပေါင်း အတော်ကြာအောင် ထိုနေရာ၌ သီတင်းသုံးနေထိုင်တော်မူသည်။

တစ်နေ့သောအခါ ဆရာတော်သည် ကွမ်းခြံကုန်းသို့ သွားလိုသောစိတ်ရှိသဖြင့် တွံတေးသို့ သင်္ဘောဖြင့် လာခဲ့သည်။ ထိုစဉ်က ရန်ကုန်တစ်ဖက်က ဒလမှာ ကားလမ်းများ မပေါက်သေးချေ။ တွံတေးမှ ကွမ်းခြံကုန်းသို့ ကားဖြင့်သွားရသည်။ ဖောင်းတော်ချုပ်ကျောင်းသို့ ခွဲသောလမ်းရောက်သောအခါ သူသည် အလိုလိုကား ပေါ်ကဆင်းချင်စိတ်ရှိသောကြောင့် ဆင်းလာသည်။ အချိန်မှာ နံနက် ၁၁နာရီ ခန့်ရှိပြီ။ လမ်းဘေး၌ အကြော်ဆိုင်တစ်ဆိုင်ရှိသည်။ ဆရာတော်တွင် ငွေကြေးလုံးဝမပါချေ။ ထို့ကြောင့် ကလေးငယ်တစ်ဦးအား အကြော်ဆိုင်အနီးရှိ ပဒိုင်းပင်များကို လက်ညှိုးထိုး ပြပြီး ခူး၍ကပ်ရန်အလှူခံသည်။

ထိုအခါ လူအများက ဘုန်းကြီး ပဒိုင်းရွက်စားသည်။ စိတ်မနှံ့ဟု ထင်ကြသည်။ အဘယ်ကြောင့်ဆိုသော် ပဒိုင်းရွက်စားလျှင် ရူးတတ်သောကြောင့်ဖြစ်သည်။ လူမဆိုထားနှင့် နွားများပင်ရူးသည်။ သို့သော် ဆရာတော်မှာ ဘာမျှမဖြစ်ပေ။

ယခု ဖောင်းတော်ချုပ်ကျောင်းရှိရာနေရာတွင် ရှေးယခင်က ရှေးဟောင်း



စေတီပျက်တစ်ခုရှိသည်။ ဆရာတော်နှင့် သူငယ်ချင်း ကိုရင်ကြီးနှစ်ပါးသာရှိသည်။ သင့်တော်ရာ သစ်ပင်အောက်၌နေကြသည်။ ဘုရားများပြင်ပေးသည်။ ရှေးဘုရားများ ပြုပြင်သည်။ ထို့နောက် တဖြည်းဖြည်း လူများက ကြည်ညိုလာ၍ ကျောင်းကန်များ ဆောက်လုပ်လှူဒါန်းသည်။ စေတီများစွာဖြစ်လာသည်။

ထိုသို့ သာသနာပြုနေစဉ် ဆရာတော်သည် မည်သည့်အာဟာရမဆို ဘုဉ်းပေးလျှင် ဘေးအန္တရာယ်မဖြစ်ကြောင်း ကျော်ကြားလာသည်။ တစ်နေ့သောအခါ ကံပဲရွာတွင်းမှ လူမိုက်တစ်ယောက်သည် ဟုတ်မဟုတ် စုံစမ်းမည်ဟု သေလောက်အောင်စပ်သော ရှမ်းငရုတ်သီး အစိမ်းအတောင့်ရှည်မျိုး ပန်းကန်ပြားကြီးတစ်ချပ်ပြည့်အောင် ယူလာ၍ ဆရာတော်အား ဘုဉ်းပေးပါဟုကပ်သည်။ ဆရာတော်သည် ဘာမျှမပြောဘဲ ငရုတ်သီးကြီးများကို တစ်တောင့်ပြီးတစ်တောင့် ဘုဉ်းပေးတော်မူသည်။ ငရုတ်သီး တစ်ပန်းကန်ပြားကုန်သောအခါ ဆရာတော်မှာ ဘာမျှမဖြစ်ချေ။ ရိုးရိုး သရက်သီးစား ရသကဲ့သို့ပင်ဖြစ်သည်။

လှူဒါန်းသော ဒါယကာမှာ အလွန် ကြောက်ရွံ့လာ၍ ဇောချွေးပြန်ကာ ရင်တွေပူလာသည်။ ထို့နောက် ဆရာတော်၏ သီလဂုဏ်၊ သမာဓိဂုဏ်ကို ယုံကြည်ပြီး လျှင် သူမိုက်ခဲ့သည်ကို ခွင့်လွှတ်ပါရန် တောင်းပန်သည်။ ဆရာတော်က မည်သူ့ကို မဆို ခွင့်လွှတ်ကြောင်း တရားဟောတော်မူရာ ယခုအခါ တပည့်ရင်းတစ်ယောက် ဖြစ်လာသည်။ ယခုတိုင် ဆရာတော်သည် သက်တော် ၈၀ ရောက်၍ သာသနာပြု နေသူ ဖြစ်သည်။

(ကျမ်းကိုး၊ ဆရာစန္ဒြ ဘဝခရီးနှင့် အတွေ့အကြုံများ၊
စာ ၂၈၂-၂၈၄)

မည်သူမဆိုသွားရောက် ဖူးမြော်နိုင်ပါသည်ဟူ၍ ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က ဆရာစန္ဒြက လမ်းညွှန်ခဲ့ပါသည်။

၁၉၀၄ ဗောင်းတော်ချုပ်ဆရာတော် အလောင်းအလျာကို မြန်မာသက္ကရာဇ် ၁၂၆၁ ခုနှစ်၊ တပို့တွဲ ၁၂ ရက်၊ စနေနေ့ (ခရစ်နှစ် ၁၉၀၄ ခု၊ ဖေဖော်ဝါရီလ ၁၀ ရက်နေ့) တွင် အဘဦးပန်းဖြူ၊ အမိဒေါ်လှလေး တို့က မွေးဖွားသန့်စင်သော ဒုတိယသား ရတနာပင် ဖြစ်ပါသည်။

၁၉၂၄ မြန်မာသက္ကရာဇ် ၁၂၈၆ ခုနှစ်တွင် ဆရာတော်ကြီးသည် ညောင်တုန်းမြို့ နယ်၊ ဂဝံကျောင်းဆရာတော် ဦးဓမ္မစာရိတ္တဝဏ္ဏမထေရ်ကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်တော်မူခဲ့ပါသည်။

ကျေးဇူးတော်ရှင် ဗောင်းတော်ချုပ်ဆရာတော်ကြီး၏ ဩဝါဒမှာ 'ခန္ဓီမူလ၊ မာန်ကိုချ၊ ဒေါသကိုပယ် မေတ္တာလွယ်' ဟူ၍ ဖြစ်သည်။

၁၉၃၉ ဆရာတော်သည် ရဟန်း ၁၅ ဝါအရ တောရဆောက်တည်ရန် စိတ်ရည် သန်၍ ဦးတည်ထွက်ခွာသွားခဲ့သည်။ သို့သော် ဆရာတော်မှာ ကျိုက်ထီးရိုးစေတီသို့ မရောက်ဘဲ ရန်ကုန်မှတွံတေးသို့ သင်္ဘောဖြင့် စီးလာခဲ့ရာ တွံတေးသို့ မရောက်မီ တာဝသင်္ဘောဆိပ်သို့ ရောက်ရှိခဲ့လေသည်။ ထိုမှ တစ်ဆင့် ကွမ်းခြံကုန်းမြို့နယ်၊ ကသစ်ကုန်းရွာသို့ မော်တော်ကားစီး၍ ရောက်ခဲ့သည်တွင် ဝါဆိုချိန်တိုင်ပြီဖြစ်သည့်



အတွက် ဦးပုည၏ ဥယျာဉ်ခြံမှာပင်တစ်ဝါ, ဝါဆိုခဲ့ရလေသည်။ ဆရာတော်သည် ဝါတွင်းတစ်လျှောက် သစ်သီးဆွမ်းကိုသာ ဘုဉ်းပေးဆောင်ခဲ့ရလေသည်။

၁၉၄၀ ဝါတွင်းကာလ လွန်မြောက်ပြီးနောက် ဆရာတော်သည် တွံတေးမြို့နယ် တလုတ်ထော်ကျေးရွာအနီး ဘာလီကုန်းကျေးရွာ၌ တစ်ဝါဆိုခဲ့ရပြန်သည်။

၁၉၃၈ မြန်မာ သက္ကရာဇ် ၁၃၀၀ ပြည့်နှစ်တွင် ဗောင်းတော်ချုပ်စေတီကို ထီးတော် တင်လှူခဲ့သည်။

တွံတေးတောကြီးတန်းအတွင်းရှိ ဗောင်းတော်ချုပ်တွင် နေထိုင်စဉ်အတွင်း ကျိုက်ဖူးကျိုက်ပါ စေတီဟောင်းများကိုလည်း ပြန်လည်ပြုပြင်ခဲ့သည်။ ထို့ပြင် ဆရာ တော်ကြီးသည် မိတ္ထီလာမြို့ ရှမ်းတဲ လေတပ်စခန်းမှ စေတီဟောင်း၊ ကံဘဲ့စံပြကျေးရွာ အနီးရှိ ရွှေနံ့စေတီတော်ဟောင်း သဝန်းတောကျေးရွာရှိ နောင်တရ စေတီဟောင်း၊ တွံတေးမြို့နယ် ရွှေလက်ခုပ်ကျောင်းဝင်းအတွင်းရှိ စေတီဟောင်း၊ ကော့မှူးမြို့နယ် ငှက်အော်စမ်းကျေးရွာရှိ ဘုရားသုံးဆူစေတီဟောင်းများ စသည်တို့ကို ပြုပြင်ခဲ့ပါ သည်။

ဗောင်းတော်ချုပ်ဆရာတော်ကြီးသည် မေတ္တာစွမ်းအားဖြင့် စိတ်ဝေဒနာရှင် ပေါင်း မြောက်မြားစွာကို ကုသပျောက်ကင်းစေခဲ့ပြီး သာသနာပြုလုပ်ငန်းများ ပြုလုပ် ဆောင်ရွက်နိုင်ရန် တိုက်တွန်းပေး လမ်းညွှန်မှုများလည်း ပြုလုပ်နိုင်ခဲ့သည် ဟူ၍ပင် ဖြစ်ပါသည်။

(ကျမ်းကိုး။ ဦးကျော်ခိုင်ခန့်၊ နေလ ဂမ္ဘီရာနယ် အမှတ် ၉၈ ၊ စာ ၁၅-၁၆)

အထက်ပါ ဆရာစန္ဒြ၏ အဆိုအမိန့်တိုင်းပင်လျှင် အခြားကျမ်းများ၌လည်း ဖတ်ရှုရ ပါသေးသည်။

(ကျမ်းကိုး။ စံပယ်ဦးစာပေထုတ် သာသနာတော်၌ ထင်ရှားသော ဆရာတော်ကြီးများ စာအုပ်တွင် ဆရာ ဦးကျော်ထင်သည် ဆရာစန္ဒြ၏ ကိုယ်တွေ့မှတ်တမ်းကို ပြန်လည်ကိုးကား တင်ပြခဲ့သည်။)

၁၉၈၉ ဆရာတော်ကြီးသည် မြန်မာသက္ကရာဇ် ၁၃၄၆ ခုနှစ်၊ တပို့တွဲလဆန်း ၂ ရက်၊ အင်္ဂါနေ့ နံနက် ၃ နာရီခွဲ၊ အေဒီ ၁၉၈၉ ခု၊ ဇန်နဝါရီလ ၂၂ ရက်တွင် ပျံလွန် တော်မူခဲ့ပါသည်။

ထူးခြားလှသည်မှာ ဆရာတော်ကြီး၏ ရုပ်ခန္ဓာက မပုပ်မသိုးဘဲ တည်ရှိနေ သဖြင့် မှန်ခေါင်းဖြင့်ထည့်ကာ အပူဇော်ခံထားရှိခဲ့သည်မှာ ၁၁ နှစ်ကျော် ကာလတိုင် အောင်ဖြစ်သည်။ ကျောက်ဂူအတွင်းထည့်၍ ပူဇော်ခဲ့သည်မှာ ၃ နှစ်ကျော် ကာလမျှ သာ ရှိသေးသည်ဟု သိရပါသည်။ သို့သော်လည်း ကျောင်းသခ်မ်းအတွင်းမှာကား ဗောင်းတော်ချုပ်ဆရာတော်ကြီး၏ ပုံစံတူ ပလာစတာရုပ်တုနှင့် ဆရာတော်ကြီး၏ တပည့်ဖြစ်သူ ဦးကုဏ္ဍလာ၏ ပုံစံတူ ပလာစတာရုပ်တုကိုလည်း ဖူးမြော်ရပါသည်။

အရိုးတွင် အပေါက်ပါ၍ ချိတ်ဖြင့်ချိတ်ထားသကဲ့သို့ အံ့ဖွယ်ဖူးမြော်ရသော

ဧရာဝတီတိုင်းဒေသကြီး ဟင်္သာတမြို့နယ် ဆိပ်သာကျေးရွာ ခြင်ဘို့အုပ်စု ရှမ်းကျောင်း

# ဆရာတော် ဦးနန္ဒိယ

အေဒီ ၁၉၀၀- ၁၉၈၄ (၁၂၆၂ - ၁၃၄၅)



တော်ဝင်မြေ



ဟသ်ာတမြို့နယ် ခြင်ဘို့အုပ်စု ဆိပ်သာကျေးရွာ ရှမ်းကျောင်းတွင် အလွန်ထူးခြားသော ဆရာတော် တစ်ပါး၏ ရုပ်ကလာပ်တော်ကို ယနေ့တိုင် ဖူးမြော်နိုင်ပါသည်။ နှစ်ပေါင်းကြာပြီး ဖြစ်သော်လည်း ယနေ့တိုင် ပုပ်သိုးခြင်းမရှိဘဲ ရုပ်ကလာပ်တော်ကြီး တည်ရှိနေသဖြင့် ရပ်ဝေးရပ်နီး ကျော်စောပါသည်။

## လက်တော်ကို ဖြတ်၍ သူခိုး ခိုးခြင်း

ထူးခြားချက်မှာ မသမာသောသူများက ဗိမာန်တွင် ပူဇော်ထားသော ငွေများကို ယူဆောင်သွားသည့်အပြင် လက်တော်ကိုပါ ဖြတ်ယူသွားကြပါသည်။ အလွန် အကုသိုလ်များကြပါသည်။ ထိုသူများကြောင့် ယခုအခါ ထိုရုပ်ကလာပ်တော်ကြီးမှာ လက်တော်အတုတပ်၍ ထားရပါသည်။

## အရိုးမှာ အပေါက်ပါရုံသာမက ချိတ်ဖြင့် ချိတ်ထားသကဲ့သို့ အံ့ဖွယ် ဖူးမြော်ရ

ဤတွင် အဆိုးထဲက အမြတ်တစ်ခု ရရှိခဲ့ပါသည်။ ထိုအမြတ်မှာ အခြားမဟုတ်ပါ။ မသမာသူများက လက်တော်ကို ဖြတ်ယူသွားကြသဖြင့် ရုပ်ကလာပ်တော်မှာ လက်တော်မရှိဘဲ နေခဲ့ရာ၊ ထိုနေရာတွင် အရိုးမှာ အပေါက်ပါရုံသာမက ချိတ်ဖြင့် ချိတ်ထားသကဲ့သို့ အံ့ဩဖွယ်ဖူးမြော်ရသဖြင့် ထိုမသမာသူများကိုပင် ကျေးဇူးတင်ရ တော့မည်ကဲ့သို့ ဖြစ်နေရပါသည်။

ရှေးသရောအခါကတည်းက ထိုဆရာတော်ကြီးသည် ထိုကျောင်းတွင်ပင် သက်တော် ၈၄ နှစ်အထိ နေထိုင်သီတင်းသုံးခဲ့ပါသည်။ ဝါတော်ကလည်း ၆၁ ဝါ ရှိပါသည်။ ထူးခြားသော ရဟန်းထူး ရဟန်းမြတ်တစ်ပါးဖြစ်ကြောင်း အရိုးအပေါက်နှင့် ချိတ်ဆက်ဖြစ်၍ ယခုအခါမှာ ရွှေချ ပူဇော်ထားရ ကြောင်း ယခုမှသိရသော်လည်း ရှေးရှေးကတည်းက မဟာထေရုပ္ပတ္တိကို လေ့လာစုဆောင်းထားသူ မရှိသဖြင့် ကျယ်ကျယ်ပြန့်ပြန့် မသိရှိရပါ။

## ဘွဲ့တော် ဦးနန္ဒိယ

သိရသမျှမှာ အနည်းငယ်မျှသာ ဖြစ်ပါသည်။

ဆရာတော်၏ ဘွဲ့တော်ကား ဦးနန္ဒိယဖြစ်၏။ အလွန်သည်းခံ၏။ အလွန်အေးဆေး စွာ သီတင်းသုံး၏။ တစ်ပါးတည်း နေလေ့ရှိ၏။ စကားလည်း အပိုပြောလေ့မရှိ။ ပရိတ်တော်ကို အမြဲရွတ်၏။ ဂုဏ်တော်ကို အမြဲပွားများ အားထုတ်၏။ ထိုမျှသာ သိရပါသည်။

## အလောင်းကို မြေမမြှုပ်နှင့် မီးမသင်္ဂြိုဟ်နှင့်ဟု မှာတော်မူခဲ့

ဆရာတော် ပျံလွန်တော်မမူခင်က မည်ကဲ့သို့ အမှာစကားများ ရှိပါသနည်းဟု စုံစမ်း သော်လည်း တစ်ခွန်းနှစ်ခွန်းမှလွဲ၍ မှတ်သားထားသူ နည်းပါသည်။

သို့သော် ထူးခြားချက်မှာ ငါပျံလွန်တော်မူလျှင် ငါ၏အလောင်းကို မြေလည်း မမြှုပ်နှင့်၊ မီးလည်း မသင်္ဂြိုဟ်နှင့်ဟု မှာတော်မူခဲ့ပါသည်။

ဆရာတော် ခန္ဓာဝန်ချသောအခါမှ ထူးခြားမှုများကို သိရှိလာရပါသည်။

ဆရာတော်ပျံလွန်တော်မူသောအခါ ဆရာတော်၏ အလောင်းကို ဆေးလည်း



**မထိုး၊ ဆေးလည်းမစိမ်၊ အူလည်းမထုတ်၊ သည်အတိုင်းထား၏။ အရောင်လည်း မပြောင်း၊ ပုပ်လည်းမပုပ် သို့သော် တဖြည်းဖြည်း ခြောက်ကပ်၍သွား၏။**

ဤသို့ဖြင့် ထားရှိကြပြီးနောက် ဆရာတော်ကြီး၏ အလောင်းတော်ကို သုသာန်တွင် ဂူသွင်း၍ ပူဇော်ထားခဲ့သည်။ ရိုးရိုးအတိုင်း ပြုခြင်းဖြစ်ပါသည်။ ထိုအခါ ဂူထဲမှ ရောင်စုံများ ထွက်လာကြသဖြင့် လူပြောများလာကြပါသည်။

## ဂူကြီးသည် လှုပ်၏ အလင်းရောင်ထွက်၏

သို့သော် တစ်စ တစ်စနှင့် ထူးခြားမှုများ ဖြစ်ပေါ်လာခဲ့ပါသည်။ ဂူကြီးသည် လှုပ်၍ လှုပ်၍ နေတတ်သည်။ ဂူကြီးမှ ရောင်စုံအလင်းရောင်များ ထွက်နေတတ်သည်။ ဂူကြီး အနီးတွင် မီးထွန်းသကဲ့သို့ ရှိနေတတ်သည်။ ဤသို့ဖြင့် တစ်စတစ်စ လူပြောများလာခဲ့ ပါသည်။

## ဂူကိုဖြို၍ ရုပ်ကလာပ်တော်ကို မှန်ခေါင်းသွင်း

ထို့ကြောင့် ရွာကလူကြီးများသည်လည်း မနေသာတော့ဘဲ ဂူကြီးကို တစ်ဖန်ဖြို၍ ရုပ်ကလာပ် တော်ကို မှန်ခေါင်းတွင် သွင်းထားရပြန်လေသည်။

## ကျောင်းသို့ ပြန်သယ်ကြ

ရုပ်ကလာပ်တော်ကို ဂူအပြင်မှာ အပူဇော်ခံထား၏။ ထိုအခါ ယခင်ကအတိုင်းပင် ဖြစ်ရပ်ဆန်း များဖြစ်ပြန်၏။ ဤသို့ဖြင့် သုသာန်တွင် ဆက်လက်မထားဝံ့တော့ဘဲ မူလကျောင်းတော်သို့ လက်ဆင့် ကမ်း သယ်ယူလာရပြန်သည်။ ၎င်းနောက် ဗိမာန်တော်ဖြင့်ပူဇော်ထားရခဲ့ပါသည်။

ထိုအခါက ဦးစီးဦးဆောင်ပြု၍ ပင့်ဆောင်ခဲ့သည်မှာ ဇလွန်မြို့ မြို့မကျောင်းတိုက်တွင် သီတင်းသုံးတော်မူသော သဒ္ဓမ္မဇောတိကဓဇ ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းခြင်းခံရသော ဆရာတော် ဘဒ္ဒန္တစိန္တိတ ဖြစ်ပါသည်။

## သူခိုး ခိုး၍ ကျေးဇူးတင်ရတော့မလိုဖြစ်

ထိုအခါ အလောင်းတော်၏လက်တော်ကို ခိုးယူသူများ ရှိလာကြသဖြင့် အရိုးမှာ အပေါက်ပါရုံသာမက ချိတ်ဖြင့်ချိတ်ထားသကဲ့သို့ ရှိနေကြောင်း အံ့သြကြည်ညိုဖွယ်ရာ သိရှိ ရပါသည်။

> **ထိုသို့ ဗိမာန်တော်တွင် ပူဇော်ထားစဉ် စောစောက သိခဲ့ပြီးဖြစ်သည့်အတိုင်း မသမာသူ များက လက်တော်ကို ဖြတ်ယူသွားကြသဖြင့် ရုပ်ကလာပ်တော်မှာ လက်တော် မရှိဘဲ နေခဲ့ရာ ထိုနေရာတွင် အရိုးမှာ အပေါက်ပါရုံသာမက ချိတ်ဖြင့် ချိတ်ထားသကဲ့သို့ အံ့သြဖွယ် ဖူးမြော်ရသဖြင့် ထိုမသမာ သူများကိုပင် ကျေးဇူးတင်ရတော့မည်ကဲ့သို့ ဖြစ်နေရပါသည်။**
>
> (ကျမ်းကိုး၊ ပိုမိုသိလိုလျှင် အယ်ဒီတာ သန်းကြွယ် နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၂ ဇူလိုင်လ၊ စာ ။ ၄၁ - ၄၂ ကို ကြည့်ကြပါ။)

ဓာတ်တော်များကြွင်းကျန်တော်မူသည်သာမက အရိုးတော်မှာ ချိတ်ဆက်ဖြစ်နေသည့် ရဟန္တာအရှင်မြတ်ကြီး

# စလင်းကန်လယ်ဆရာတော်ဘုရား

ခေအဒီ ၁၉၀၁ – ၁၉၉၁ ( ၁၂၆၃ – ၁၃၅၀ )





စလင်းဆရာတော်ကြီး၏ ဓာတ်တော်ကို မိတ္ထီလာ၊ ဝမ်းတော်ပြည့် ဓာတ်တော်တိုက်တွင် အပူဇော်ခံထားကြောင်း တွေ့ရှိရပါသည်။

(ကျမ်းကိုး၊ အရှင် ယောသိတနှင့် ဓမ္မာစရိယ ဦးဌေးလှိုင် တည်းဖြတ်သော မိတ္ထီလာ ဝမ်းတော်ပြည့် ဓာတ်တော်တိုက်သမိုင်းကို ကြည့်ပါ။ ပုံနှင့်တကွ ဖော်ပြထားသည်။)

စလင်းဆရာတော်ကြီး၏ အကြောင်းအရာတို့ကို ရှေးသရေအခါက အထက်ရွှေစက်တော်ဘုရားမှ ပဲ့ကျသွားသော ခြေမတော်ကို တောင်ဝှေးတွင် ထည့်ထားကိုးကွယ်ကြောင်း တစ်စွန်းတစ ကြားဖူးသော်လည်း အသေအချာမသိ၍ ထပ်မံလေ့လာရပါသည်။

ထိုအခါ စလင်းကန်လယ် ဆရာတော်ကြီးအကြောင်းကို အောက်ပါအတိုင်း ကြည်ညို ဖွယ်ရာ ဖတ်ရှုရပါသည်။

## အရိုးတော်မှာ ချိတ်ဆက်ဖြစ်ခြင်း ဓာတ်တော်များကျခြင်း ကြည်ညိုဖွယ်

၁၉၉၁ ပျံလွန်တော်မူတဲ့အခါမှာ ပုပ်ခြင်း နံခြင်း လုံးဝမရှိ။ ပကတိ ကြည်လင်လျက်ရှိသလို အချိန်အခါမဟုတ် ကန်ကြီးမှာ ရေတွေပြည့်လျှံလာတဲ့အပြင် အရိုးမှာ ချိတ်ဆက်ဖြစ်သလို ဓာတ်တော်များလည်း ကျပါသတဲ့"ဟူ၍ ဖတ်ရှု ကြည်ညိုရပါသည်။ ထိုအချက်အလက်တို့ကို ဦးစန္ဒိမ(စလင်း)၏ ဖော်ပြချက်များဖြစ်ပါသည်။

(ကျမ်းကိုး၊ ဦးစန္ဒိမ(စလင်း)၊ အပ္ပမာဒ ၂၀၀၂ ခု၊ ဇန်နဝါရီလ အတွဲ ၃၊ အမှတ် ၁၊ စာမျက်နှာ ၄၆ တွင် ဖတ်ရှုကြည်ညို ရပါသည်။)

အထက်ပါအတိုင်း ဖတ်ရှုရသောအခါ ကွန်ပ်တို့မှာ လွန်စွာဝမ်းမြောက်သဖြင့် ကိုးကွယ်စရာ ကြည်ညိုစရာများ တိုးပွားလာသည်ဟု ယူဆ၍ ပိုမို ကြည်ညိုဖွယ်တို့ကို ပိုမို ရှာဖွေကာ တင်ပြပါမည်။ အညတရ ဘိက္ခုရေး၊ စက္ခုအလင်း သံခိပ်အကျဉ်းနှင့်အတူ စလင်းကန်လယ်ဆရာတော် ဘုရားကြီး ထေရုပ္ပတ္တိကို ခရစ်နှစ် ၁၉၈၅ ခု၊ စက်တင်ဘာလ၊ ပဌမအကြိမ် ထုတ်ဝေခဲ့ရာ ရေးသူ ဦးထွန်းအောင် တည်းဖြတ်သူ ဦးခင်မောင်ဆန်းတို့၏ ကောင်းမှုကြောင့် နတ်လူသာခု ခေါ်စရာ ဖြစ်လာပါသည်။ ထပ်ဆင့် ကြည်ညိုနိုင်ရန် ကိုးကားဖော်ပြပါမည်။ အညတရဘိက္ခုမှာ စလင်းကန်လယ်ဆရာတော်ကြီးကိုယ်တိုင် ဖြစ်၏။

## ဇာတိနှင့် ဖွားသက္ကရာဇ်

၁၉၀၁ မကွေးတိုင်းဒေသကြီး၊ စလင်းမြို့နယ် မအူ အလယ်ရွာ ခမည်းတော် ဦးစံအုပ်၊ မယ်တော် ဒေါ်ဆယ်တို့မှ အေဒီ ၁၉၀၁ ခု၊ ဒီဇင်ဘာလ ၅ ရက်၊ (၁၂၆၃ ခု တန်ဆောင်မုန်း လပြည့်ကျော် (၁၀) ရက်) ဗုဒ္ဓဟူးနေ့တွင် စတုတ္ထမြောက်သား ရတနာအဖြစ် ဖွားမြင် လေသည်။ (မှတ်ချက်၊ လပြည့်ကျော် ၁၀ ရက်မှာ ကြာသပတေးနေ့ဖြစ်ကြောင်း တွေ့ရပါသည်၊ ပညာအလင်းပြ အင်္ဂလိပ် မြန်မာ နှစ်တစ်ရာ ပြက္ခဒိန် ၁၂၂၅ မှ ၁၃၂၉၊ ၁၉၉၆ ခု၊ ပုံနှိပ် ပညာအလင်းပြ *စာအုပ်တိုက်*၊ စာ၊ ၂၂၈ ကို ကြည့်ပါ)

(ကျမ်းကိုး၊ အညတရ ဘိက္ခုရေး၊ စက္ခုအလင်း သံခိပ်အကျဉ်းနှင့် စလင်းကန်လယ် ဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိ၊ ခရစ်နှစ် ၁၉၈၅ ခု၊ စက်တင်ဘာလ၊ ပဌမအကြိမ်ရေးသူ ဦးထွန်းအောင် တည်းဖြတ်သူ ဦးခင်မောင်ဆန်း)



## မအူရွာ ဇာတိ

ဆရာတော်၏ မွေးရာဇာတိ မအူရွာသည် တစ်ရွာတည်း တည်ရှိခြင်းမဟုတ်ဘဲ လေးရွာတည်ရှိပါသည်။ ၎င်းတို့မှာ မအူမြောက်ရွာ၊ မအူအလယ်ရွာ၊ မအူတောင်ရွာနှင့် ဈေးရွာခေါ်သော မအူအရှေ့ရွာတို့ ဖြစ်ကြသည်။

## စာဆိုတော် ကျည်းကန်ရှင်ကြီးနှင့် ဦးလေးတော်စပ်

ထိုမအူလေးရွာမှာ ရေစကြိုမြို့ အရှေ့မြောက်ဘက် ချင်းတွင်းမြစ်ကမ်းဘေးတွင် တည်ရှိပြီး ရေစကြိုနှင့် (၈)မိုင်မျှ ဝေးကွာသည်။ ကျည်းကန်ရှင်ကြီးသည် မအူလေးရွာ၏ အနောက်ဘက်၌ တည်ရှိသော ဇာတိ ကျည်းကန်ရွာကို အစွဲပြု၍ ကျည်းကန်ရှင်ကြီးဟုခေါ်တွင် ကျော်ကြားခြင်းဖြစ်ပါသည်။ ကျည်းကန်ရှင်ကြီးသည် ဆရာတော်၏ ဦးလေးတော်စပ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၈၆ )

## အဘယ်ကြောင့် မအူရွာဟု ခေါ်

ဆရာတော်၏ မွေးရပ်ဌာနေ မအူရွာကို မအူရွာဟု အဘယ်ကြောင့် ခေါ်ရသနည်းဆိုသော် ကုန်းဘောင်ခေတ် စဉ့်ကူးမင်း၏ မိဖုရား မအူမှာ ထိုရွာဇာတိ ဖြစ်သည်။ ထို့ကြောင့် ထိုရွာကလေးကို မအူကို အစွဲပြု၍ မအူရွာဟု အမည်တွင်လာပြီး ကာလကြာညောင်း ခေတ်ပြောင်းရွှေ့သော် မအူရွာဟု ခေါ်တွင်ကြလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၈၆ )

## မြင်းတစ်ကောင်နှင့် မောင်စိန်ကဲ

၁၉၀၆ အေဒီ ၁၉၀၆ ခု၊ (၁၂၆၈ ခု) မောင်စိန်ကဲ အသက် (၅) နှစ်အရွယ်တွင် လူငယ်အဖော်တစ်စုတို့နှင့် အင်းစပ်၌ အဝတ်အစားများချွတ်ကာ စုပုံခဲ့ပြီး ရေချိုးကြရာ စုပုံထားသော လုံချည်အများထဲမှ ဆရာတော်လောင်းလျာ မောင်စိန်ကဲ၏ အင်္ကျီနှင့်လုံချည်ကိုသာ ရွေးချယ်လျက် မြင်းတစ်ကောင်က ပြေးလာပြီး ဝါးစားပစ်လိုက်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၈၈ )

## အထက် သွားနှစ်ချောင်း ရှည်ထွက်လာ၍ တူဖြင့် ရိုက်ချိုးရခြင်း

၁၉၀၈ အေဒီ ၁၉၀၈ ခု၊ (၁၂၇၀ ခု )ဆရာတော် လောင်းလျာအသက် (၇) နှစ်ရှိသောအခါ အထက်သွား အစွယ်နှစ်ချောင်းမှာ ထူးဆန်းအံ့ဩဖွယ်ရာ နေ့ချင်းညချင်း ရှည်ထွက်လာပြီး အောက်နှုတ်ခမ်းကိုပင် ကျော်လွန်သွားသဖြင့် စာကျက်ရာတွင်လည်းကောင်း၊ စကားပြောရာတွင်လည်းကောင်း၊ အစာစားရာတွင်လည်းကောင်း၊ အခက်အခဲတွေ့နေရာတွင် လူကြီးမိဘကို အသိမပေးဘဲ ရွာထဲ၌ရှိသော ပန်းတိမ်ဖိုမှရွှေဖြတ်လွှနှင့်အတွင်းခံအကြောမကြီးမှာ ဖြတ်မရ၍ ရွှေဆစ်သောတူဖြင့် ဆတ်ရိုက်လိုက်မှ ကျိုးသွားသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၀ )

## ဒုတိယအကြိမ် အံသွားနှစ်ချောင်း အံ့ဖွယ်ပွားတွေ ပွားလာခြင်း

၁၉၁၉ အေဒီ ၁၉၁၉ ခု၊ (၁၂၈၁ ခု) သက်တော် (၁၈) နှစ်ပြည့်သောအခါ စာပြန်ပွဲဝင်ရန် အထူးကြိုးစား၍ စာပေများကျက်မှတ်နေစဉ် ကိုရင်၏ အထက်သွားအစွယ်နှစ်ချောင်းမှာ အသက် (၈) နှစ်ခန့်က အရှည်ထွက်လာသကဲ့သို့ ဒုတိယအကြိမ် နေ့ချင်းညချင်း



ရှည်ထွက်လာပြန်သည်။ ထို့ပြင် အံသွားနှစ်ချောင်းလုံးမှာလည်း ကျောက်ခက်ကျောက် ပန်းသဖွယ် အံပွားတွေ ပွားလာပြန်သဖြင့် စာကျက်၍ မရသည့်အပြင် ဆွမ်းစားဖို့ပင် ခက်ခဲလာ၍ ငယ်စဉ်ကကဲ့သို့ပင် ဖြတ်တောက်ပစ်ရ ပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၂)

၁၉၁၉ ဆရာတော်လောင်းလျာသည် မော်လမြိုင်မြို့၌ လောကီပညာ အင်္ဂလိပ်စာပေကိုလည်း သင်ကြားခဲ့လေသည်။ ဆရာတော်သည် ဗီဇဓာတ်ခံ မျိုးချစ်စိတ် ထက်သန်သူဖြစ်၍ အမျိုးဘာသာ သာသနာ ကြီးပွားလိုစိတ်၊ ကမ္ဘာလှည့်လည်၍ သာသနာပြုလိုစိတ်များ ရှိသူဖြစ်လေသည်။ စာမေးပွဲဖြေဆို အောင်မြင်ပြီးနောက် အေဒီ ၁၉၁၉ (၁၂၈၁ ခုနှစ်)တွင် မန္တလေးမြို့၌ ကျင်းပသော နဝမမြောက် အမျိုးသားကွန်ဖရင့်သို့ ကိုယ်တိုင် တက်ရောက်ခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၃)

၁၉၂၂ အေဒီ ၁၉၂၂ ခု၊ (၁၂၈၃ ခုနှစ် ) (၁၉) နှစ်ပြည့်ပြီး သုံးလအလွန်တွင် နှစ်ပါးမိဘတို့က ပဉ္စင်း ဒါကာအဖြစ်ခံယူပြီး ဦးလေးတော် ဦးသောမကို ဥပဇ္ဈာယ်ပြုလျက် မအူရွာ ခဏ္ဍသိမ်တော်ကြီးတွင် - ပထမကမ္မဝါဆရာတော်၊ အလုံသာသနာပိုင် ဆရာတော်၊ ဒုတိယကမ္မဝါ ဆရာတော်၊ ဝိသုဒ္ဓါရုံ ဆရာတော်၊ တတိယကမ္မဝါ ဆရာတော် အဂ္ဂမဟာပဏ္ဍိတဝိဇ္ဇာလင်္ကာရ မဒရပ်ဆရာတော်တို့က သာကီနွယ်ဖွာတ်ဖြင့် မြင့်မြတ် သော ရဟန်းဘဝသို့ သွတ်သွင်းချီးမြှင့်ပေးကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၄ )

ဝါဆိုဦးတွင် မန္တလေးမြို့ အနောက်ဝိသုဒ္ဓါရုံကျောင်းတိုက်သို့ ပို့ဆောင်အပ်နှင်းပေးသဖြင့် လောကီလောကုတ္တရာ စာပေများကို ဆက်လက်သင်ကြားပြန်သည်။

## ဇာလီတောင်ဆရာတော်နှင့် စာသင်ဖက်

ဆရာတော်နှင့် စာသင်ဖက်များမှာ ပြည်မြို့ အဂ္ဂမဟာပဏ္ဍိတ ဟာရာဏာသီဆရာတော်၊ အဂ္ဂမဟာပဏ္ဍိတ ဓမ္မကထိကအကျော် အနီးစခန်းဆရာတော်နှင့် ယခု သရက်မြို့ ဇာလီတောရစ်ပျော် ဦးသုမင်္ဂလဆရာတော်တို့ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၅ )

## ဂါထာ ၃၀၀ နှုတ်တက်ရ

ဆရာတော်သည် မော်လမြိုင်တွင် နေထိုင်ခဲ့စဉ်က ကြံစည်စိတ်ကူးခဲ့သော ကမ္ဘာလှည့်၍ သာသနာပြုရန်အလို့ငှာ အင်္ဂလိပ်စာကို ဆက်လက်ဆည်းပူးသည်။ ထို့ပြင် ဦးလေးဘုန်းကြီး ညွှန်ကြား လိုက်သော ဘင်္ဂါလီ - နာဂလီမှ ထုတ်နုတ်ထားသော ဓာတွတ္တသဂြိုဟ်ကျမ်းမှ ဂါထာပေါင်း (၃၀၀) ကျော်ကို နှုတ်တက်မှတ်ရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၆)

## တောထွက်ရန် တိုင်ပင်

တရားရှာရာတွင်လည်း ဘုရားအလိုတော်ကျ တောထွက်ရှာမှဖြစ်မယ်ဟု သတိသံဝေဂဝင်လျက် စာသင်ဖက် ဦးသုမင်္ဂလ (ယခုဇာလီတောင်ဆရာတော်)အား တိုင်ပင်ရာ သဘောတူညီမှုကြသဖြင့် ရဟန်း (၅)ဝါအရတွင် တောထွက်ကြမည် တိုင်ပင်ဆွေးနွေးထားကြလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၆ )



ထိုရွာတွင်း၌ပင် ဦးလေးဘုန်းကြီးသည် အခြားကျောင်းထိုင်ဆရာများအား ပင့်ဖိတ်လျက် ဆရာတော်ကြီးများ ဆုံရာရှေ့တွင် မိမိသည်အသက်ကလည်းကြီးရင့်၊ ရောဂါဖိစီးမှုကလည်း တစ်နေ့တခြား ဆိုးရွားလာသဖြင့် ဤကျောင်းနှင့်တကွ ကျောင်းတွင်းရှိ ဂရုဘဏ် လဟုဘဏ် ပစ္စည်းများမှာ ဦးပဉ္စင်းလေး၏ မိဘများက လှူဒါန်းထားသော ပစ္စည်းက အများစုဖြစ်သည့်အတွက် ဦးပဉ္စင်း (ဦးဝဇိရ) အား မိမိမပျံလွန်တော်မမူမီ ရဟန်းပုဂ္ဂိုလ် လူပုဂ္ဂိုလ်တို့ရှေ့မှောက်တွင် လွှဲအပ်လိုကြောင်း အမိန့်ရှိတော်မူရာ ဆရာတော်ကြီးများနှင့်တကွ လူပုဂ္ဂိုလ်တို့ကလည်း သင့်မြတ်ကြောင်း လျှောက်ထားကြ၏။

ထိုအခါ ဆရာတော်သည် ဝါတော်ငါးဝါရလျှင် တောဝနာသို့ထွက်ကာ တရားဘာဝနာများကို ရှာကြံအားထုတ်မည်ဟု ဇာလီတောင်ဆရာတော်နှင့် ကတိထားကြ၍ ဆုံးဖြတ်ပြီးသဖြင့် ဤကဲ့သို့ပြန်၍ လျှောက်ထားလေ၏။ 'တပည့်တော်အနေနှင့် ဤကျောင်းကို လုံးဝမခံနိုင်ပါကြောင်း တပည့်တော်မှာ ဦးပဏ္ဍာယ်ဆရာလည်းဖြစ်၊ ဦးလေးလည်းတော်စပ်၍သာ စောင့်ရှောက်ရန် ခေတ္တပြန်လာခြင်းသာ ဖြစ်ကြောင်း ဦးလေးဘုန်းကြီးနှင့် အတူနေပြီး ဦးလေးဘုန်းကြီးအား ဝတ်ကြီးဝတ်ငယ် ပြုစုနေတဲ့သူမဟုတ်ကြောင်း။

ကျောင်းတွင် အမြဲနေထိုင်လျက် ဘုန်းကြီးအား ဝတ်ကြီးဝတ်ငယ်ပြုစုနေကြသော တပည့်ရဟန်းများနှင့်သာ ထိုက်တန်ကြောင်း' ယတိပြတ်လျှောက်ထားလိုက်ရာ ကြွရောက်လာကြသော ရဟန်းပရိသတ် လူပရိသတ်များမှာ အထူးအံ့သြကြသည်ဟု ဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၈)

ကျောင်းဇရပ် အစရှိသည်တို့ကိုလည်း လက်မခံ ငြင်းပယ်ခဲ့ပြီးပြီ၊ အချိန် နေ့ညဆင့်၍ မသင့်တော်၊ ရက်ဆွဲနေ၍ မဖြစ်တော့ ဦးလေးဘုန်းကြီးအလောင်း မီးသင်္ဂြိုဟ်ပြီးလျှင် တောထွက်တော့မည်ဟု ဆုံးဖြတ်လိုက်တော့သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၈)

ထိုသို့ အကြံဖြစ်ပေါ်ပြီး (၆) ရက်မြောက် ညဉ့်နက်သန်းခေါင်ကျော်တွင် ဘုန်းကြီးအလောင်းမှ သက်န်းကိုခွာယူလျက် လျှော်ဖွပ်ရန် မလိုသည့်အလား၊ ထိုည၌ပင်အခါမဲ့မိုးရွာချသဖြင့် ရေအိုင်ထဲ၌ ထိုသက်န်းကို လျှော်ဖွပ်ရတော့သည်။ ခန်းနေကိုယ်တော်များဖြစ်ကြသော ဦးပဏ္ဍိတမှာ လူဝတ်လဲ၍ သေဆုံးပြီးဖြစ်သော်လည်း၊ ဦးသုမန (လူအမည် ဦးဘဟန်)မှာ ယခု မအူရွာတွင် အသက်ထင်ရှား ရှိနေလေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၉)

ဦးလေးဘုန်းကြီး၏ အန္တိမစျာပနပြီး၍ နောက်တစ်နေ့တွင် ဖွပ်လျှော်ထားသော သက်န်းကို ဝတ်ရုံလျက် ပရိက္ခရာ (၈) ပါးကို ယူဆောင်ကာ တရားရှာဖွေရန် တောဝနာသို့ ထွက်လာခဲ့ရာ ဖခင်ကြီး သိသွားသဖြင့် လောလောဆယ် တောမထွက်ရန် တားမြစ်ပါသော်လည်း မည်သို့မျှ တားမရသဖြင့် ဖခင်ကြီးမှာ သားရဟန်းအား စိတ်မချနိုင်သောကြောင့် သားရဟန်းနောက်မှလိုက်၍ အလုပ်အကျွေး ပြုပါရစေဟုလျှောက်ထားပြန်ရာ ဆရာတော်သည် ဖခင်အား အတန်တန် တားမြစ်ငြင်းဆိုသော် မရ သည့်အဆုံး၌ ငါသည် ဖခင်ကြီးအား မလိုက်ရန် တားမြစ်နေ၍ ရုတ်တရက်ရလိမ့်မည်မထင်။ ထို့ကြောင့် လောလောဆယ် တောထွက်ဖို့က အရေးကြီးသည်ဟု သဘောပိုက်ကာ ဖခင်ကြီးကို လိုက်ရန်ခွင့်ပြုလိုက်ရတော့သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၀၀)

ဆရာတော်သည် လူသူအပေါက်အရောက်နည်းလှသော မအူရွာ၏ မြောက်ဘက်တွင် ချင်းတွင်းမြစ်ကမ်းနားတွင်ရှိသော သပြေပင်မောင်နှမဂူသို့ သီတင်းသုံးနေထိုင်ရန် ကြွတော်မူ၏။ ထိုအခါ ဆရာတော်အား ထိုဂူ၌ နေထိုင်သီတင်းသုံးခြင်းမပြုရန် ဆွေမျိုးများကဝိုင်း၍ တားမြစ်ကြလေတော့သည်။



အဘယ်ကြောင့် ထိုသို့တားမြစ်ရကြောင်းကို ဖခင်ကြီးအား မေးမြန်းကြည့်ရာ ထိုနေရာမှာ အလွန်ကြမ်းတမ်း၍ လူများကို အန္တရာယ်ပြုကြောင်း၊ ဆိုင်ရာကမကြိုက်သည်ကို ပြုလုပ်မိလျှင်သော်လည်းကောင်း၊ သစ်ပင်ဝါးပင် ခုတ်မိလျှင်သော်လည်းကောင်း၊ အိမ်သို့ပြန်ရောက်လျှင် သေကြေ ဖျားနာကြသောကြောင့် မည်သူမျှလာရောက်ခြင်းမရှိကြောင်းနှင့် ထိုသပြေပင်မောင်နှမဂူ၏အောက် ရေထဲတွင် ငါးကြီးများ လှေလောက်နီးနီးရှိကြောင်း၊ ထိုသို့ အန္တရာယ်များသည့် ဤနေရာ၌ နေထိုင်သီတင်းသုံးရန် မသင့်ကြောင်းကို လျှောက်ထား၏။

ထိုအခါ ဆရာတော်သည် ကြောက်စိတ်မဝင်ရုံမျှမက၊ ဤကဲ့သို့ နေရာမျိုးတွင် လူသူအရောက်နည်း၍ ပိုပြီးဆိတ်ငြိမ်ကာ တရားထူးများရနိုင်ကြောင်း သဘောပေါက်မိတော့သည်။ ဖခင်ကြီး တားမြစ်သည့်ကြားမှပင် ဆရာတော်သည် မေတ္တာဘာဝနာများ ပွားများကာ အမျှပေးဝေပြီး သပြေပင်မောင်နှမဂူအတွင်းသို့ဝင်သွားရာ ဆရာတော်မရောက်မီ မကြာခင်ကပင် အမှိုက်သရိုက်များ လှည်းထားသကဲ့သို့ သန့်ရှင်းစင်ကြယ်စွာတွေ့ရသည်။ ထို့အပြင် မြေပြင်ပေါ်၌ ထက်ဝက်မျှပေါ်နေပြီး စိုက်ထားသကဲ့သို့ ရှိနေသော မိုးကြိုးသွားကို ထိုဂူအတွင်း၌ တွေ့ရပြန်၏။ ထိုအခါဆရာတော်သည် ငါ့ဘွဲ့တော်ကလည်း ဝဇိရာဝုဓ၊ ယခုတွေ့ရပြန်တော့လည်း မိုးကြိုးသွား ငါသည်မုချ၊ ဤဂူ၌ပင် တရားထူးရအံ့ဟု အထူးအားတက် ရွှင်လန်းဝမ်းမြောက်တော်မူသည်ဟု သိရပါသည်။

ထို့နောက် တစ်ဖန် ဂူမှပြန်အထွက်တွင် ဂူပေါက်ဝရှိ မိကျောင်းပင်တစ်ပင်၌ ပေစာထုပ်ချိတ်ဆွဲထားသည်ကို တွေ့ရပြန်သဖြင့် ပေထုပ်ကိုဆွဲယူပြီး ကြည့်ရှုလိုက်ရာ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာမှ ဝိပဿနာအခန်းများကိုသာ ထုတ်နုတ်ရေးသားထားသော ပေစာဖြစ်နေပြန်၏။ ဆရာတော်သည် အထူးအံ့ဩလျက် ငါသည် ဤနေရာ၌ မဂ်တရား ဖိုလ်တရား ဧကန်ရမည်ဟု စိတ်အားတက်တော်မူကာ ဤဂူ၌ အနှောင့်အယှက်ရှိ၍ လူပင်သေသေ တရားအားထုတ်အံ့ဟု ယတိပြတ် ဆုံးဖြတ်ချက်ချလိုက်တော့သည်။

ထိုသို့ ဆုံးဖြတ်ပြီးနောက် ဆရာတော်သည် တစ်ပါးတည်းသာ သီတင်းသုံးနေထိုင်ပြီး တရားအားထုတ်လိုသဖြင့် ဖခင်ကြီးအား ပြန်၍သွားရန် အတန်တန်ပြောကြား၏။ ထိုအခါ ဖခင်ကြီးသည် သားပဥ္စင်း၏ နေထိုင်စားသောက်ရေးတို့ကို စိတ်မအေးသဖြင့် သားပဥ္စင်းအား အလုပ်အကျွေးပြုပါရစေဟု အတန်တန်လျှောက်ထား ပြောဆိုပါသော်လည်း ဆယ်ရက်မျှအကြာတွင် သားပဥ္စင်း၏ ငြင်းဆိုချက်ကို မလွန်ဆန်သာသောကြောင့် စိတ်မချမ်းသာစွာဖြင့် ပြန်သွားရတော့သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၉၉-၁၀၁ )

ထိုသပြေမောင်နှမဂူတွင် ဗိမာန်ပြု၍နေသော မောင်နှမသည် ဆရာတော်အား ကြည်ညိုလေးစားကြ၍ ညစဉ် ဆရာတော်၏ တရားကိုလာရောက်နာယူကြသည်။ နှမလေးမှာ ရိုသေလေးစားစွာ ကျုံ့ကျုံ့ထိုင်ပြီး တရားကိုနာယူလျက် မောင်ဖြစ်သူမှာ တင်ပျဉ်ခွေပြီး ရှိခိုးကန်တော့ခြင်းမပြုဘဲ တရားကိုသာနာယူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၀၃ )

**ဆရာတော်သည် သပြေပင်မောင်နှမဂူမှ ပေါ်တော်မူကုန်းသို့ ပြောင်းရွှေ့ သီတင်းသုံးနေတော်မူလျက် ဒါယကာ ဒါယိကာမများအား တရားဘာဝနာ ဟောကြားပြပါသည်။ (ဆရာတော်သည် သပြေပင် မောင်နှမဂူကို 'သောတာပန်'ဂူဟု ကမ္ပည်းထိုးခဲ့ကြောင်း မိန့်ကြားပါသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၀၆ )

## ထူးဆန်းသော ကျားနှင့် လင်းဖတ်ငှက်

၁၉၅၇ ခေတ်ပျက်စဉ်ကာလ အေဒီ ၁၉၅၇ ခု၊ နိုဝင်ဘာလ ၇ ရက်၊ ကြာသပတေးနေ့ (၁၃၁၉ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော်) တစ်ရက်တွင် ရှင်မတောင်မှ ဖိုးဝင်းတောင်သို့ လှည်း(၁၄)စီးတို့ဖြင့် ဘုရားဖူးကြွစဉ်၊ ထူးဆန်းသော အဖြစ်အပျက်များမှာ



ဆရာတော်နှင့်တကွ တပည့်များ ဖိုးဝင်းတောင်တွင်နေကြစဉ် ညအခါ ကြောက်စရာကောင်းသော ကျားဟိန်းဟောက်သံကြီးကိုကြားကြ၍ ပရိသတ်တို့သည် သူမှားသလားကိုယ်မှားသလားဟု တွေးတောကြကာ ကြောက်လန့်ကြ၏။ မငြိမ်မသက်ရှိကြ၏။ ထိုကျားသည် တကယ့် ကျားသတ္တဝါမဟုတ်ပါ၊ တပည့်ပရိသတ်ပြည့်စုံ၍ နာမည်ကြီးသော ဆရာတော်အား ဓားပြတိုက်ရန်လာသော လူဆိုးတို့ကို ဟိန်းဟောက်မောင်းထုတ်သော သာသနာစောင့်သော သာသနာစောင့်နတ်ပင် ဖြစ်ပေမည်။ ဓားပြများကားထွက်ပြေးကြလေတော့သည်။

ဤသို့ဖြင့် နောက်နေ့တွင် ဖိုးဝင်းတောင်မှ ငါးခုန်ရွာသို့ ပြန်လာကြရာ၊ ညမိုးမှောင်ကျနေသဖြင့် ဟိုဟိုဒီဒီမမြင်ရအောင်ရှိ၏။ လင်းဖတ်ငှက်တစ်ကောင်သည် ဆရာတော်၏ ရင်ဘတ်သို့ တိုးဝှေ့ဝင်လာ၏။ ဆရာတော်သည် ထိုငှက်ကလေးကို သာယာစွာပင် ဖမ်းယူထားလိုက်၏။ ဆရာတော်သည် အကြောင်းထူးရှိမည်ဟု ရှေ့သို့ ဓာတ်မီးဖြင့်ထိုးကြည့်ရာ၊ ရှေ့ဝါးနှစ်ပြန်လောက်တွင် နတ်စောက်သော ချောက်ကြီး **တစ်ခုကို တွေ့မြင်တော့၏။ လှည်းအားလုံး လမ်းမှားနေကြပေပြီ။ ဆရာတော်၏ သီလ, သမာဓိ, ပညာအားကား ကြီးမားဘိ၏။ သာသနာစောင့်နတ်က ဖန်ဆင်းသော ကျားနှင့်ငှက်တို့ဖြစ်တော့၏။ ဤသို့ဖြင့် လမ်းမှားမှ လမ်းမှန်သို့ ရောက်အောင် စောင့်ရှောက်ကြ၏။ ပို့ပေးကြ၏။**

(ကျမ်းကိုး။ ယင်းကျမ်း စာ၊ ၁၁၀-၁၁၁ )

ဆရာတော်သည် ရှင်မတောင်မှ ထွက်ခွာလာခဲ့ပြီး ပခုက္ကူခရိုင် မြိုင်မြို့ ပတ်ဝန်းကျင်မှာရှိသော သနပ်ခါးတောင်ကြီးထဲတွင် သစ်တစ်ပင်ရင်း ဝါးတစ်ပင်အောက် နေထိုင်သီတင်းသုံးပြီး ဆွမ်းခံစားကာ တရားဘာဝနာများကို အားထုတ်တော်မူပြန်သည်။ ၎င်းမြိုင်တောကြီးထဲ၌ သုံးလမျှနေထိုင်ခဲ့ပြီး မြိုင်တောကြီးမှ လောင်းရှည်ကိုဖြတ်ကာ စေတုတ္တရာသို့လည်းကောင်း၊ ထိုမှတစ်ဖန် နွားမတောင် သို့လည်းကောင်း၊ နွားမတောင်မှ ပဒါန်းသို့လည်းကောင်း၊ ပဒါန်းမှ ရွှေစက်တော်သို့ ဝါဆိုအမီ တောလမ်းအတိုင်း ခြေကျင်ကြွတော်မူသည်ဟု သိရပါသည်။

ဆရာတော်သည် အထက်စက်တော်ရာဘေးတွင် ယခု ဝဇီရာ ရာမကျောင်းနေရာ သစ်ပင်တစ်ပင်ရင်း၌ နေထိုင်တော်မူကာ ခုတင် ကမ္မဋ္ဌာန်းဆောက်တည်တော်မူသည်။

ဆရာတော်သည် တောရဆောက်တည်သည်မှစ၍ ခုတင်ဆယ်ပါးကို အမြဲဆောက်တည်ပြီး ဝါတွင်းသုံးလတို့၌ အဓိဋ္ဌာန်ဖြင့်ပိုင်းဖြတ်ကာ ခုတင်(၁၃)ပါးကိုဆောက်တည်တော်မူသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၁၁ )

## ဇာလီတောင် ဆရာတော်နှင့် တိုင်ပင်ကြခြင်း အကြောင်းရင်း

ထိုသို့ဆောက်တည်နေစဉ် မန္တလေးမြို့ အနောက်ဝိသုဒ္ဓါရုံ ကျောင်းတိုက်၌ စာသင်သားဘဝ စာသင်ဖက်ဖြစ်သော ရဟန်း(၅)ဝါရလျှင် တောထွက်ရန် တိုင်ပင်ဖူးသည့် ငါးသိုင်းချောင်းလေးမျက်နှာမှ ဆရာတော်ဦးသုမင်္ဂလ (ဇာလီတောင်ဆရာတော်)အား တွေ့ဆုံရသဖြင့် အားရရွှင်မြူးကြည်နူးဝမ်းမြောက်ဝမ်းသာဖြစ်ကြကာ တရားဓမ္မများကို ဆွေးနွေးကြရတော့သည်။

ဦးသုမင်္ဂလ၏ မိတ်ဆက်ပေးမှုကြောင့် ရွှေစက်တော် သင်္ဂဇာကွေ့တွင် တောရဆောက်တည်နေသော မန္တလေး မစိုးရိမ်စာသင်တိုက်မှ ထွက်ခွာလာသည့် ဘားအံသား ကရင်အမျိုးသား ရဟန်းတော် ဦးပဏ္ဍိတနှင့် ဓမ္မမိတ်ဆွေဖြစ်ကာ တရားအားထုတ်ဖက်ဖြစ်ကြတော့သည်။

ဆရာတော်သည် ရွှေစက်တော်ပတ်ဝန်းကျင်တောတောင် ဂူကျောင်းများကို လှည့်လည်၍ တရားအားထုတ်ကာ နှစ်ဝါတိတိဆိုခဲ့၏။ ထိုမှ တစ်ဖန်ကျောင်းတော်ရာသို့ ခြေကျင်ကြွတော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၁၂ )



## အထက်စက်တော်ရာမှ ရရှိသော ခြေမတော်

ယခု ဆရာတော်၏ လက်ဝယ်၌ရှိတော်မူသော ဘုရားသခင်ခြေမတော်သည် အထက်စက်တော်ရာမှ ပဲ့သော ခြေမတော်ဖြစ်သည်။ ရရှိပုံမှာ အထက်စက်တော်ရာ တည်ရှိတော်မူသော တောင်ကမ်းပါးများ ပဲ့ကျသဖြင့် မြေပြိုသောဘေးမှ လွတ်ကင်းရန် စိုးရိမ်တော်မူသဖြင့် လယ်ကိုင်းဆရာတော်ကြီး ဦးဆောင်၍ ဘေးလွတ်ရာသို့ ရွှေ့ပြောင်းရာ ခြေမတော်လေး ပဲ့ပါလာခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၁၂)

ထိုအဖြစ်အပျက်ကြောင့် လယ်ကိုင်းဆရာတော်ကြီး ခြေတော်ရာ ရွှေ့မှုဖြင့် မျက်စိနှစ်ကွင်း ကွယ်သွားလေသည်။ ထိုအခါ လယ်ကိုင်းဆရာတော်ကြီးသည် မိမိသည် ခြေရာပျက်စီးမှာ စိုးရိမ်၍တစ်ကြောင်း၊ ဘုရားဖူးများအန္တရာယ်မရှိစေရန်တစ်ကြောင်း စေတနာကောင်းဖြင့် ပြုလုပ်ခြင်းသာဖြစ်ကြောင်း နတ်သိကြားတို့သည် ဆရာတော်ကြီးအား မျက်စိနှစ်ကွင်း အလင်းရစေရန် ကျောင်းတော်ရာရွာ၌နေသော ဆရာတော်၏နမ မယ်ဝအိမ်ခြံထဲမှ သစ်မြစ်ကိုသွေးပြီး မျက်စိကို ကွင်းလိုက်လျှင် အလင်းရမည်ဟု အိပ်မက်ပေးလာ၏။ ဆရာတော်သည် အိပ်မက်အတိုင်းဆောင်ရွက်ရာ အကယ်ပင် မျက်စိနှစ်ကွင်းအလင်းရတော့၏။ ထိုခြေမတော်ကလေးမှာ လယ်ကိုင်းဆရာတော်ထံသို့ ရောက်ရှိလာခြင်းဖြစ်သည်ဟု သိရပါသည်။ ထိုမှတစ်ဆင့် ထိုခြေမတော်မှာ စလင်းဆရာတော်၏ လက်ဝယ်သို့ရောက်ရှိခြင်းဖြစ်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၁၃)

၁၉၃၂ အေဒီ ၁၉၃၂ ခု၊ ဇူလိုင်လ (၁၂၉၄ ခုနှစ် ဝါဆိုလဆန်း)တွင် အောင်နိုင်ကုန်းမှ ပွင့်ဖြူမြို့ စက်ပိုင်ရှင်ဒေါ်လွမ်းက လာရောက်ပင့်ဆောင်သဖြင့် ပွင့်ဖြူမြို့အနောက်ဘက် မုန်းချောင်းကမ်းဘေး ပြည်လုံးကျော် (အင်းကြီးဗိုလ်ဥတ္တမရွာ)ကျေးရွာနှင့် မနီးမဝေးတွင်ရှိသော လွန်းတောင်သို့ကြွပြီး ဝါဆိုတော်မူလေသည်။

## ဇာလီတောင်ဆရာတော်

ဆရာတော် လွန်းတောင်၌ဝါဆိုစဉ် ဦးသုမင်္ဂလသည် ဇာလီတောင်လွန်းတောင်ဘေးတွင် ဝါဆိုတော်မူပါသည်။ ဦးပဏ္ဍိတမှာ မင်းဘူးကျောင်း ရွှေစက်တော်အနီး သံပရာကိုင်းတွင် ဝါဆိုတော်မူသည်။

ဆရာတော်သည် အတည်တကျ သီတင်းသုံးနေထိုင်ရန် ဆောက်လုပ်လှူဒါန်းသော ကျောင်းများကို အလှူခံတော်မမူဘဲ ခရီးလှည့်လည်၍ တစ်ခါတစ်ရံ မိမိဆန္ဒရှိသောဒေသမှ ဂူချောင်ဇရပ် ဝါးကျောင်းများသို့လည်းကောင်း ကြွရောက် ဝါဆိုတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၁၉)

၁၉၃၃ အေဒီ ၁၉၃၃ (၁၂၉၅ ခုနှစ်)တွင် မကွေးမြို့ သုံးဘဝပြောင်း ဒေါ်ကျင်မြိုင် လာရောက် ပင့်ဆောင်သဖြင့် မြသလွန်ဘုရားကြီး၏ အရှေ့ဘက် ကုမာရချောင်တွင် ဒေါ်ကျင်မြိုင် ဆောက်လုပ်လှူဒါန်းသော ဝါးကျောင်းကလေးတွင် သီတင်းသုံးနေထိုင်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၁၉)

## ဇာလီတောင်ဆရာတော်

ဆရာတော်မကွေးမြို့၌ သီတင်းသုံးနေစဉ် ဦးသုမင်္ဂလ (ဇာလီ) ဆရာတော်သည် ရေနံချောင်းမြို့၏မြောက်ဘက် ဥသျှစ်ကုန်းရွာအနီးတွင် တောရဆောက်တည်နေရာမှ မကွေးမြို့ တောင်ဘက်



မြင်ကွန်းရွာ အရှေ့ဘက်တောင်တန်းသို့ ရွှေ့ပြောင်းလာပြီး သီတင်းသုံးလျက် တောရဆောက်တည်နေပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၀)

၁၉၃၆ ဆရာတော်သည် အေဒီ ၁၉၃၆ ခု (၁၂၉၈ ခု နှစ်)တွင် မကွေးမြို့မှ မဇ္ဈိမဒေသသို့ ကြွချီလျက် ဘုရားပွင့်တော်မူသော ဗောဓိပင်နှင့်တကွ သတ္တဋ္ဌာန နေရာများနှင့် ဓမ္မစကြာဟောတော်မူသော မိဂဒါဝုန်တော် အစရှိသည်တို့ကို လှည့်လည်ဖူးမြော်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၁)

## ဗောဓိမျိုးစေ့များ ပင့်ဆောင်လာခြင်း

ဆရာတော် အိန္ဒိယမှအပြန်တွင် မဟာဗောဓိ ဗုဒ္ဓဂယာမျိုးစေ့နှင့် အာနန္ဒာမျိုးစေ့များကို ပင့်ဆောင်လာခဲ့ပြီး မကွေးမြို့မှ တစ်ဆင့် စလင်းမြို့ ကန်လယ်သို့ စင်ရော်ရေယာဉ်ဖြင့် ပင့်ဆောင်ခဲ့၍ စိုက်ပျိုးရာ ယခုတိုင် ရွှေမုဋ္ဌောဘုရားတောင်ဘက်တွင် တစ်ပင်၊ ကန်လယ်တွင် တစ်ပင် ရှိပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၁)

## ဂျပန်ခေတ် ဗုံးများကြားဝယ်

ဆရာတော်ဘုရားကြီးသည် စစ်ကြီးအတွင်း ဂျပန်များ မော်လမြိုင်ရောက်၍ မကွေးမြို့ ဗုံးကြဲချပြီး၊ နောက်တစ်နေ့တွင် မင်းဘူးမြို့မှ ဝတ်လုံတော်ရ ဦးလှာဘနှင့် ခရိုင်ဝန် ဦးဘဦးတို့ လာရောက်ပင့်ဆောင်ကြသဖြင့် မင်းဘူးမြို့သို့ ကြွရောက်ကာ ရှင်ပင်စက္ကိန်းတဲဘုရားအနီး ပန်းထိမ်ဆရာကြီး ဦးဘရွှေ ဆောက်လုပ်လှူဒါန်းထားသောကျောင်းတွင် သီတင်းသုံးနေထိုင်တော်မူလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၁)

## ဇာလီတောင်ဆရာတော် အဖမ်းခံရခြင်း

၁၉၄၃ အေဒီ ၁၉၄၃ ခု၊ (၁၃၀၅ ခုနှစ်)တွင် ဝါကျွတ်ပြီးတွင် လွန်းတောင်၌ သီတင်းသုံးနေသော ဦးသုမင်္ဂလအား ဂျပန်ကင်ပေတိုင်များက အင်္ဂလိပ်သူလျှိုဟု စွပ်စွဲကာ ဖမ်းဆီးပါသည်။ ဆရာတော် ဦးသုမင်္ဂလ လွတ်မြောက်ရေးအတွက် ဆောင်ရွက်ရန် ရန်ကုန်မြို့သို့ ကြွတော်မူရပြန်သည်။

ထိုစဉ်က သာသနာရေးဝန်ကြီးအဖြစ် ဆောင်ရွက်သူ ဗန္ဓုလဦးစိန်၏ အကူအညီယူပြီး သက်ဆိုင်ရာတို့နှင့် ဆောင်ရွက်ပေးမှုကြောင့် ဇာလီတောင် ဆရာတော်မှာ လွတ်မြောက်ရလေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၃ )

## စစ်ကြီးအတွင်း စလင်းဆရာတော်နှင့် ဇာလီတောင်ဆရာတော်

ဆရာတော်သည် ကိစ္စများဆောင်ရွက်ပြီးနောက် ရန်ကုန်မြို့မှ ပြန်လာကာ ဒုတိယကမ္ဘာစစ်ကြီးပြီးဆုံးသည်အထိ မင်းဘူးမြို့၌ သီတင်းသုံး၍ နေထိုင်တော်မူသည်။ စစ်ကြီးပြီးဆုံးသောအခါ ဆရာတော်နှင့် ဦးသုမင်္ဂလ၊ ဦးပဏ္ဍိတတို့ ရွှေစက်တော်တွင် တွေ့ဆုံကြ၏။ ဆရာတော်နှင့် ဦးပဏ္ဍိတတို့သည် ဦးသုမင်္ဂလအား သီတင်းသုံးနေထိုင်လျက်ရှိသော ဇာလီတောင်သို့ ပို့ဆောင်ပေးခဲ့ပြီးနောက် ဆရာတော်သည် စလင်းမြို့သို့ ပြန်ကြွခဲ့ပါသည်။

ဦးပဏ္ဍိတမှာ ခန္ဓာဝန်ချသည်အထိ ကျောက်မဲတောင်တွင် သီတင်းသုံးနေထိုင်သွားပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၄)



ဆရာတော်သည် စလင်းမြို့သို့ကြွသွားပြီးလျှင် သီတင်းသုံးနေရာများတွင် နေထိုင်တော်မမူဘဲ ယခုသီတင်းသုံးနေသော ကန်လယ်ကုန်းသို့ကြွရောက်၍ ဒါယကာ ဒါယိကာမများ ဆောက်လုပ်လှူဒါန်းသော ဝါးကျောင်းကလေးတွင် သီတင်းသုံးနေထိုင်တော်မူသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ၊ ၁၂၄ )

## ဘေးမဲ့ကန်

ဤကန်ကြီးတွင် မှီတင်းနေထိုင်ကြကုန်သော သတ္တဝါများကို ဘေးမဲ့ပေးစေပြီး ထိုကန်ကြီးသည် ယခုအထိ ဘေးမဲ့ကန်အဖြစ် တည်ရှိနေပါသည်။

ထိုကန်ကြီး၏ အကျယ်အဝန်းမှာ စတုရန်း ၁. ၇ မိုင် ကျယ်ဝန်း၏။ ကန်ကြီး၏ အရှေ့ဘက်တွင် စလင်းမြို့တည်ရှိ၏။ တောင်ဘက်တွင် ရှမ်းရွာ ကန်ရွာနှင့် ဆင်ကျုံးရွာတည်ရှိပါသည်။ အနောက်ဘက်တွင် ရွာသစ်ရွာကန်ချောင်း စာသင်တိုက်နှင့် တမာချောင်းရွာသို့ တည်ရှိကြပြီး မြောက်ဘက်တွင် ကန်ဘောင်ရွာ၊ မကျည်းကုန်းရွာ၊ ဝမ်းပြေ့အောက်လှိုင်းရွာတို့တည်ရှိပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ၊ ၁၂၆ )

## ကန်စောင့်နတ်နှင့် ပုဂံခေတ် တရုတ်ပြေးမင်း

ထိုကန်ကြီးတွင် စောင့်ရှောက်သောနတ်ကြီးသည် တရုတ်ပြေးမင်းလက်ထက်၌ မြန်မာပြည်ကို တရုတ်တို့နယ်စပ်ကို ဖြတ်ကျော်စဉ်က ကြိုတင်သိရှိခဲ့သဖြင့် တရုတ်ပြေးမင်းအား သတိပေးခဲ့ပါသည်။

## ကန်ကြီးပြုပြင်ပေး ကမ္ဘာလုံးအေး

စလင်းဘေးမဲ့ကန်ကြီးကို ပြုပြင်ပေးပါက တရုတ်များ၏ ဘေးရန်မှ လွတ်မည် ဖြစ်သောကြောင့် သံတော်ဦး အကြိမ်ကြိမ် တင်ခဲ့ပါသော်လည်း တရုတ်ပြေးမင်းမှာ ကာမဂုဏ် အာရုံ၌သာ မေ့မျောနေသဖြင့် တရုတ်တို့ တိုက်ခိုက်ခြင်းကို ခံခဲ့ရပါသည်။ ထို့ကြောင့် ပြည်ပအန္တရာယ်များ ကင်းပျောက်စေရန် အလို့ငှာ ဆရာတော်သည် ကန်ကြီးကို ပြုပြင်ပေးရန် တိုက်တွန်းသည့်အနေနှင့် 'ပဒုမ္မာရွှေကြာ ဘိုးတော်စံရာ နတ်ပြည်နှင့် တူလေခြင်း၊ ဘိုးတော်စံကင်း ကန်ကြီးပြုပြင်ပေး ကမ္ဘာလုံးအေး' ဟူ၍ ကန်စပ်ရှိ ရွှေမုဋ္ဌော စေတီတန်ဆောင်းတွင် စာတန်းရေးထိုးထားလေသည်ဟု သိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ၊ ၁၂၇ )

ဆရာတော်သည် ကန်လယ်၌နေထိုင်၍ ညအခါတွင် ပတ်ဝန်းကျင်၌ရှိသော (၁) မောဂ္ဂလာန်၊ (၂) ဆင်မလမ်း၊ (၃) စေတီလှ၊ (၄) ရွှေလေ၊ (၅) မင်းရစ်ကုန်း၊ (၆) ပန်းပဲစုဆရာတော်၊ (၇) တဲကြီးစု၊ (၈) ရွာသစ်၊ (၉) တမာချောင်း၊ (၁၀) ချောင်းမကြီး သုသာန်များကို တစ်လှည့်စီ ကြွရောက်ကာ ဓုတင်ဆောက်တည်တော်မူလေသည်။ ထို့ပြင်သုညာဂါရဖြစ်သော ကျောက်တံခါးမကြီး တစ်ထောင်အစရှိသော နေရာများတွင်လည်း သီတင်းသုံး မွေ့လျော်တော်မူပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ၊ ၁၂၇ )

## ဓာတ်တော်ကွန့်မြူးခြင်း

ဆရာတော်သည် သီတင်းသုံးနေထိုင်တော်မူစဉ် တစ်ညသ၌ စလင်းမြို့ဘက်က ကန်ကြီး၏ ကန်စပ်မှ ကိုက်တစ်ရာအကွာခန့် ရေထဲရှိကျူတောထဲမှ ရောင်ခြည်တော် ကွန့်မြူးသည်ကို တွေ့မြင်ရသဖြင့် စောင့်ဆိုင်းကြည့်ရှုခဲ့ရာ ညစဉ်လိုလိုပင် အရောင်ဖြာဝေပြီး ကွန့်မြူးနေသည်ကို တွေ့မြင်ရ၏။ ထို့ကြောင့် ဒါယကာ ဒါယိကာမတို့အား ကျူတောကြီးကို ရှင်းလင်းသုတ်သင်စေလျက် ထိုဓာတ်တော် ကွန့်မြူးသော နေရာတွင် စေတီတည်ထားကိုးကွယ်ကြရန် တိုက်တွန်းတော်မူလေသည်။ ဒါယကာ



ဒါယိကာမများသည် ဆရာတော်၏ တိုက်တွန်းချက်ကို ဦးထိပ်ပန်ဆင်လျက် စေတနာထက်သန်စွာဖြင့် စေတီတော်ကြီး တစ်ဆူတည်ထားကိုးကွယ်ကြ၏။ စေတီတော်ကြီး ပြီးမြောက်သွားသည့်အပြင် တန်ဆောင်းကြီးများ ပေါ်ပေါက်လာပါတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၈ )

## တောထွက်စဉ်က သက်န်းတော်

ထိုစေတီတော် တည်ထားကိုးကွယ်ရာတွင် ဆရာတော် တောထွက်စဉ်က အလောင်းပတ်ထားသော သင်္ကန်းကြီးကိုလည်း အခြားပစ္စည်းများနှင့်အတူ ဌာပနာလိုက်တော့သည်။ ယခုအခါ စလင်းမြို့၌ တန်ခိုးကြီးသော ဘုရားတစ်ဆူအဖြစ် ပါဝင်သော ရွှေမုဋ္ဌောစေတီပင်ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၈ )

## ရွှေစက်တော် ခြေမတော် ရန်ကုန်သို့ ကြွခြင်း

တိုင်းပြည် လွတ်လပ်ရေးရပြီး မကြာမီတွင် ဆူပူသောင်းကျန်းမှုများ ဖြစ်ပွားလာသဖြင့် ရန်ကုန် အစိုးရ အခေါ်ခံရချိန်တွင် ပြည်ထဲရေးဌာန အတွင်းဝန် ဦးတင်ထွေး၏ ပင့်လျှောက်ချက်အရ သတ္တဝါများ ကပ်ကြီးသုံးပါးမှ လွတ်မြောက်ကြောင်းကို ငဲ့ညှာတော်မူ၍ ရန်ကုန်မြို့သို့ ရွှေစက်တော် ခြေမတော်ပင့်ဆောင်ကာ ကြွလာတော်မူသည်။

## သမ္မတ စပ်ရွှေသိုက်

ဆရာတော်သည် သမ္မတ စပ်ရွှေသိုက်၏ အိမ်တော်တွင် တရားဒေသနာတော်များ ဟောကြား၍ ပရိတ်တော်များကို ချီးမြှောက်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၈)

## ရဲဘော်ဖြူ ပိုလ်ဖိုးကွန်း

ဆရာတော်သည် ရန်ကုန်မြို့မှ ပြန်လည်ရောက်ရှိလာပြီး တစ်နေ့တွင် လူပုဂ္ဂိုလ် တစ်ဦးမှာ ရဲဘော်ဖြူများ ခြံရံလျက် ဆရာတော်ထံ ရောက်လာသည်။ ဆရာတော်အား ဖူးမြော်ကန်တော့၍ တပည့်တော်သည် ရဲဘော်ဖြူပိုလ်ဖိုးကွန်း ဖြစ်ကြောင်းနှင့် တပည့်တော်မှာ လက်ပံတံခါးမှ လာခဲ့ပါကြောင်း လျှောက်ထားသည်။ ထို့နောက် တပည့်တော်မှာ (၃)ရက်လုံးလုံး စလင်းကန်လယ်ဟု နားထဲ၌ကြားနေရသဖြင့် စလင်းနယ်မှ ရဲဘော်များကို စုံစမ်းမေးမြန်းရာ စလင်းမြို့ ကန်လယ်တွင် သီတင်းသုံးနေသော အရှင်ဘုရားသည် သီလ သမာဓိ ပညာပြည့်စုံသော ဆရာတော်ဖြစ်ကြောင်း ကြားသိရပါသည်။ ဘုရားတပည့်တော်ကို သနားသဖြင့် ဆုံးမတော်မူရန်လျှောက်ထားပါသည်ဟု လျှောက်ကြား၏ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၉ )

ထိုအခါ ဆရာတော်ဘုရားက အလောင်းတော် ဝေဿန္တရာမင်းကြီး ပစ္စယာနာဂဆင်တော် လှူလိုက်စဉ် ပြည်သူ အများက ဟစ်တိုင်မှ အော်ဟစ်ဆန္ဒပြကြသဖြင့် ခမည်းတော် သိဉ္စည်းမင်းကြီးသည် ဝင်္ကပါတောင်သို့ ပြည်နှင်ဒဏ်ပေး၏။ ဝေဿန္တရာမင်းကြီးက ဆင်ခြင်တော်မူသည်မှာ 'ပြည်သူ့ဆန္ဒကို မလိုက်လျောဘဲ ငါသည်စစ်မက်ပြိုင်ပါလျှင် ပြည်သူအများ သေကြေပျက်စီးသဖြင့် တောင်လဲရာ မြက်ပြတ်ချေမည်' ဟု စိတ်တော်၌ ဆင်ခြင်၍ တောထွက်တော်မူခဲ့သည်ဟု သိရပါသည်။



## ဗိုလ်ဖိုးကွန်း အလင်းဝင်ခြင်းအကြောင်းအရင်း

ယခု ပြည်တွင်းစစ်ကြီးလည်း 'တောင်လဲ မြက်တွေပြတ်သကဲ့သို့ အပြစ်မဲ့သော ပြည်သူပြည်သားများသာ သေကြေပျက်စီးရခြင်းကို ဆင်ခြင်သတိပြု၍ အများပြည်သူများ ငြိမ်းချမ်းမှုအတွက်ကို စဉ်းစားသင့်ကြောင်း ဟောပြောပြသပြီး သတ္တဝါမှန်သမျှသည် ဗလာလောင်း - မသာလောင်း - ပြာလောင်းများသာ ဖြစ်ကြကြောင်း ဟောကြားလိုက်ရာ ဗိုလ်ဖိုးကွန်းက 'သိရှိသဘောပေါက်ပါပြီ ဘုရား၊ တပည့်တော် ဆရာတော်ထံမှအပြန် လက်နက်ချ အလင်းဝင်ပြီး တိုင်းပြည်တာဝန်ကို ကျရာတာဝန်က ထမ်းဆောင်ပါတော့မည်' ဟု ကတိပေး လျှောက်ထားသွားပါသည်။ များမကြာမီ ဗိုလ်ဖိုးကွန်း ရန်ကုန်ရောက်ပြီဖြစ်ကြောင်း ကြားသိရလေသည်။

## ဆဋ္ဌသင်္ဂါယနာတင်စဉ် ရွှေစက်တော် ခြေမတော် ရန်ကုန်သို့ကြွခြင်း

တိုင်းပြည်သောင်းကျန်းမှုအန္တရာယ်မှာ တစ်စတစ်စ အေးချမ်းလာသောအခါ အစိုးရကကြီးမှူး၍ ရန်ကုန်မြို့တွင် ဆဋ္ဌ သင်္ဂါယနာ တင်ပွဲကျင်းပရန် စီစဉ်ဆောင်ရွက်လျက်ရှိရာ ထိုဆဋ္ဌသင်္ဂါယနာတင်ပွဲ အောင်မြင်ရန်အတွက် အဖက်ဖက်မှ ကြိုးစားဆောင်ရွက်နေသော ဦးဌေး (ဘုန်းကြီးလူထွက်)၏ ပင့်လျှောက်လျက်အရ ရန်ကုန်မြို့သို့ ကြွရောက်လျက် ဆဋ္ဌသင်္ဂါယနာတင်ရန် လိုဏ်ဂူဆောက်လုပ်မည့် နေရာဌာနဖြစ်သော ရေကူးအရပ်အတွင် အနှောင့်အယှက်မှ ကင်းလွတ်ရန် ရွှေစက်တော် ခြေမတော်နှင့် လှည့်လည် စည်းတားပေးခြင်း၊ မေတ္တာပို့ခြင်း၊ ပရိတ်တရားများ ရွတ်ဖတ်ပေးခြင်းတို့ကို ဆောင်ရွက်ပေးတော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၂၈-၁၃၀)

## မဟာစည် ရိပ်သာသို့ ကြွခြင်း

ထိုစဉ်က ဝန်ကြီးချုပ် ပင့်လျှောက်ချက်အရ တည်ထောင်ခါစ မဟာစည်ရိပ်သာသို့ ကြွရောက်၍ တရားဘာဝနာများ ချီးမြှင့်ခဲ့ပါသည်။ ဝန်ကြီးချုပ်ဟောင်း ဦးနုက ရန်ကုန်မြို့၌ သီတင်းသုံးရန် ပင့်လျှောက်သော်လည်း လက်ခံတော်မမူဘဲ ငြင်းပယ်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၀)

## အနုမြူ ကပ်ကျော်စေတီတည်ခြင်း

ကမ္ဘာ့အနုမြူအန္တရာယ်ကြီးမှ ကျော်လွှားလွတ်မြောက်ရန် ရည်ရွယ်တော်မူ၍ အနုမြူကပ်ကျော်စေတီများကို ပုဂံမြို့ ဗူးဘုရားအနီးတွင် တစ်ဆူ၊ မုံရွာမြို့ တစ်ဖက်ကမ်း လက်ပန်တောင်းတောင်တွင် တစ်ဆူ တည်ထားကိုးကွယ်စေခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၁ )

## သမ္ဗုဒ္ဓေစေတီသို့ ကြွရောက်ဖူးမြော်ခြင်း

၁၉၅၇ ဆရာတော်သည် ၁၉၅၇ ခုနှစ်လောက်က ဇာဝိတစ်ထောင်သို့ ကြွတော်မူရာ သမ္ဗုဒ္ဓေစေတီတော်ကို ဝင်ရောက်ဖူးမြော်ပြီး နေ့အချိန်တွင် လူပရိသတ်ပေါများသောနေရာတွင် နေတော်မမူဘဲ သမ္ဗုဒ္ဓေဘုရား အနီးဝန်းကျင်ရှိ ပြောင်းတောထဲသို့ ကြွရောက်ကာ တရားနှလုံးသွင်းလျက်ရှိပါသည်။



ညနေ နေဝင်ခါနီးတွင် ပြောင်းတောထဲမှအထွက် စေတီတော်ပရိဂုဏ်အဝင်သို့ လှမ်းမျှော်ကြည့်လိုက်ရာ ပရိသတ်တစ်ထောင်ခန့် စုဝေးနေသည်ကို တွေ့ရှိရသဖြင့် ဆ... တော်သည် ပြောင်းတောထဲသို့ ပြန်ဝင်မည်ဟု ကြံစည်၍ ပြန်အလှည့်တွင် ပရိသတ်ကြီးသည် ရှေ့သို့တိုးလာကြပါသည်။

ထိုအခါ ဆရာတော်သည် ပရိသတ်ကြီးကို ငဲ့ညှာသောအားဖြင့် ကြွ၍လာရာ မိုးညှင်းဆရာတော်ဘုရားကြီးကိုယ်တိုင် ဦးဆောင်လျက် ပရိသတ်ကြီးက ဝိုင်းကန်တော့ကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၁-၁၃၂)

ဆရာတော်သည် ဝါတော် (၅၀) သက်တော် (၇၀) အထိ ခရီးသွားစရာအထူးကိစ္စဖြင့် မြို့ကြီးများသို့ ကြွသည်မှအပ အမြဲတမ်း ဧကစာရီကြွချီတော်မူကာ တရားဘာဝနာနှင့်သာ မွေ့လျော်ပျော်ပိုက်လျက်ရှိတော်မူပါသည်။

သက်တော် (၇၁) ပြည့်မြောက်သည့်နေ့မှစ၍ ကျန်းမာရေးအလို့ငှာ ကပ္ပိယအလုပ်အကျွေးပြုစုသူကို လက်ခံတော်မူသည်။

ဆရာတော်သည် တောထွက်သည့်နေ့မှစ၍ ယနေ့အထိ သာရေး၊ နာရေးများသို့ ကြွတော် မမူသည့်အပြင် ဝတ္ထုငွေများကို နဝကမ္မအဖြစ် လှူဒါန်းခြင်းကိုလည်း လက်ခံခြင်း လုံးဝခွင့်မပြုပါ။ ငြင်းပယ်တော်မူသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၂)

၁၉၇၅ အေဒီ ၁၉၇၅ ခု (၁၃၃၇)ခုနှစ် ဆရာတော်၏ ကျန်းမာရေးချွတ်ယွင်းပြီး မကျန်းမာသဖြင့် မကွေးတိုင်းဒေသကြီး ရဲမှူးဦးခင်မောင်လွင်က ပင့်ဆောင်၍ မကွေးဆေးရုံကြီးသို့ တက်ရောက်ပြီး သမားတော်ကြီးများနှင့် ကုသပါသည်။ ဆရာတော်သည် ကျန်းမာရေးအနည်းငယ်ကောင်းလာသည်နှင့် ဆေးရုံပေါ်၌ နေ့အခါ မနေဘဲ မကွေးမြို့ အရှေ့ဘက် (၂)မိုင်ခန့်ကွာ မြောက်နကူးရွာ နေရာဟောင်း သစ်ပင်အောက်သို့ ကြွရောက်ပြီး သီတင်းသုံးနေတော်မူသည်။

## တောင်ပုလု ဆရာတော် ကြွရောက်မေးမြန်းခြင်း

သစ်ပင်အောက် ကွပ်ပျစ်ကျောင်းကလေးကို မကွေး အ ထ က (၁)မှ အထက်တန်းပြ ဆရာဦးခင်မောင်ကြီးက ဆောက်လုပ်လှူဒါန်းပါသည်။

ဆရာတော်ဆေးရုံကြီး၌ ကုသနေစဉ် ကမ္ဘာလှည့်သာသနာပြု တောင်ပုလုဆရာတော်သည် ကြွရောက်လာပြီး ကြည့်ရှုမေးမြန်းပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၃ )

၁၉၇၆ အေဒီ ၁၉၇၆ ခု၊ အောက်တိုဘာ (၁၃၃၈) ခုနှစ် တန်ဆောင်မုန်းလတွင် ရန်ကုန်မှ ဒေါ်သန်းခင်သည် မကွေးမြို့ မဟာဝိသုတာရာမ စာသင်တိုက်တွင် ရှင်အပါး(၁၀၀)ပြုပွဲ ကျင်းပသည်။ အလှူပွဲသို့ ကြွရောက်လာစဉ် ရဲမှူးဦးခင်မောင်လွင်၏ အိမ်အဝင်ဝရှိသော ရဲကင်းကလေးပေါ်တွင်သာ သီတင်းသုံးတော်မူသည်။

နေ့အခါ ဆေးရုံတက်စဉ်က သီတင်းသုံးသော မြောက်နကူးရွာ တောအုပ်၌ရှိသော ဝါးကျောင်းကလေး၌သာ သွားရောက်သီတင်းသုံးတော်မူသည်။ ထိုနှစ်မှာပင်



မကွေးမြို့ သရက်လေးပင်ရွာသို့ ကြွရောက်တော်မူပါသည်။ ထိုအခါကလည်း နေ့အခါ တောတန်း၌သာ ဒါယကာများ စုပေါင်းဆောက်လုပ်ထားသော ဝါးကျောင်းကလေး၌သာ သီတင်းသုံးတော်မူ၏။ ညအခါသနပ်ခါးတော သံဃိကကျောင်းကလေးတွင် ကျိန်းစက်တော်မူပါသည်။

ဆရာတော်သည် ရဟန်းပရိသတ် လူပရိသတ်တို့ကို ညနေ ၅ နာရီမှ ၆ နာရီအထိသာ အဖူးမြော်ခံ၏။ ထိုသို့ အဖူးမြော်ခံရာ တစ်နေ့တခြားပရိသတ် များပြားလာသည့်အလျောက် တရားဟော ပြသရသည်မှာလည်း မနားရဖြစ်လာကာ ပရိသတ်တို့ကို ငြီးငွေ့လာသဖြင့် ၆ ရက်သာ စံနေတော်မူပြီး၊ ပြန်ကြွသွားပါတော့သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၃ )

## တောပျော်ဆရာတော်များ ရွှေစက်တော်ဘုရားတွင် ဆုံကြပြန်ခြင်း

၁၉၇၇ အေဒီ ၁၉၇၇ ခု (၁၃၃၉) ခုနှစ် တပေါင်းလတွင် တောပျော်ဆရာတော်များဖြစ်ကြသော (၁) စလင်းကန်လယ်ဆရာတော်၊ (၂) မင်းဘူးကျောက်မဲတောင်ဆရာတော် (၃) သရက် ဇာလီတောင် ဆရာတော် (၃)ပါးတို့သည် ရွှေစက်တော်ဘုရားတွင် ဆုံကြပြန်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၄ )

## တောထွက်စဉ်က တောင်ဝှေးတော် မဟာဝိဇယစေတီတော်တွင် ဌာပနာခြင်း

၁၉၈၂ အေဒီ ၁၉၈၂ (၁၃၄၄) ခုနှစ်တွင် ဆရာတော် တောထွက်စဉ်က ကိုင်ဆောင်အသုံးပြုခဲ့သော တောင်ဝှေးကို မဇ္ဈိမဒေသသို့ ကြွရောက်စဉ်က ပင့်ဆောင်လာခဲ့သော ဓာတ်တော် (၁၀)ဆူ ဌာပနာလျက် ငွေပြားကွပ်ကာ ရွှေသားနှင့် ကျောက်သံပတ္တမြားစီခြယ်သော စိန်ဖူးတော်တပ်ပြီး၊ ရွှေသားခြသေ့် (၃) ကောင်ကို ခြေတော်အဖြစ် တပ်ဆင်ကာ မဟာဝိဇယစေတီတော်တွင် ဌာပနာရန် မကွေးတိုင်းဒေသကြီး ကောင်စီမှ တစ်ဆင့် လှူဒါန်းတော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၄ )

ဆရာတော်သည် သီတင်းသုံးနေထိုင်တော်မူသော ကန်လယ်ကျွန်း၌ စေတီတော်တစ်ဆူကိုလည်း တည်ထားကိုးကွယ်တော်မူ၏။ ထိုစေတီ၏ မြောက်ဘက်တွင် တရားအားထုတ်ရန် ရိပ်သာကမ္မဋ္ဌာန်းကျောင်းများ ဧည့်ခံတန်ဆောင်း ရဟန်းသံဃာတော်များ တည်းခိုရန် တိုက်ကျောင်းနှစ်ကျောင်းနှင့် ဆွမ်းချက်ရုံများ တည်ဆောက်ထားသည်။ စေတီတော်၏ အနိမ့်ပိုင်းတွင် အုတ်တိုင်များ ကာရံထားပြီး တောင်ဘက်ရှိ ဆရာတော် သီတင်းသုံးနေတော်မူသော သုံးထပ်ကျောင်း၌ သိမ်တစ်လုံးရှိပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၅ )

ဆရာတော်ကို ဖူးမြော်ရန် ရောက်ရှိလာသော ပုဂ္ဂိုလ်များသည် ၇ နာရီ တစ်ကြိမ်၊ နံနက် ၁၀ နာရီ ၃၀ မိနစ်မှ နေ့ ၁၂ နာရီ တစ်ကြိမ်၊ ညနေ ၄ နာရီမှ ၇ နာရီ အထိ တစ်ကြိမ်၊ ဖူးမြော်နိုင်ပါသည်။ ကျန်သောအချိန်များတွင် ဆရာတော်သည် မိမိအတွက် တရားဘာဝနာများကို ပွားများပါသည်။ ထိုတွေ့ ချိန်များကိုလည်း အလ္လာပသလ္လာပဖြစ်သော လောက စကားလုံးတို့ကို လုံးဝမပြောကြားပေ။ တရား ဘာဝနာကိုသာ ဟောကြားပါသည်။



ထိုသို့တရားဟောတိုင်းလည်း လက္ခဏာရေးသုံးပါးကို ထင်လွယ်မြင်လွယ်အောင် 'တစ်လောကလုံး ဗလာလောင်း - မသာလောင်း - ပြာလောင်း - ကြာညောင်း မနေနှင့်' ဟု ဆောင်ပုဒ်ချပေးပြီး ဟောပြောတိုက်တွန်းတော်မူပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၁၃၆ )

ထို့ပြင် ကန်လယ်တွင်ရှိသော အဆောက်အအုံတိုင်၊ အုတ်တံတိုင်းအစ ရှိသည်တို့၌ လည်း သတိပေးသောအားဖြင့် 'ဆေးလိပ်, စကား, အပျင်း, အိပ်များ, တရားမရနိုင်'ဟု ရေးထိုးထားပါသည်။

(ကျမ်းကိုး၊ အညတရဘိက္ခု စက္ခုအလင်းသံခိပ်ကျဉ်းနှင့် စလင်းကန်လယ် ဆရာတော်၏ ထေရုပ္ပတ္တိ၊ ၁၉၈၅ ခု၊ စက်တင်ဘာလ ပဌမအကြိမ်၊ ရေးသူ ဦးထွန်းအောင် ဒိုက်ဦး၊ တည်းဖြတ်သူ ဦးခင်မောင်ဆန်း)

## ပရိနိဗ္ဗာန်ပြုတော်မူခြင်း

၁၉၉၁ အေဒီ ၁၉၉၁ ခု (၁၃၅၃ ခု ပြာသိုလပြည့်ကျော် (၁၃) ရက်နေ့) သက်တော် ၈၇ နှစ်၊ သိက္ခာတော် ၆၇ ဝါအရမှာ ပရိနိဗ္ဗာန်ပြုတော်မူခဲ့ပါသည်။

စလင်းဆရာတော်ကြီး၏ ဓာတ်တော်ကို မိတ္ထီလာ၊ ဝမ်းတော်ပြည့် ဓာတ်တော်တိုက်တွင် အပူဇော်ခံထားကြောင်း တွေ့ရှိရပါသည်။

(ကျမ်းကိုး၊ အရှင်ယောသိတနှင့် ဓမ္မာစရိယ ဦးဌေးလှိုင် တည်းဖြတ်သော မိတ္ထီလာ ဝမ်းတော်ပြည့် ဓာတ်တော်တိုက်သမိုင်းကို ကြည့်ပါ။ ပုံနှင့်တကွ ဖော်ပြထားသည်။)

## အရိုးတော်မှာ ချိတ်ဆက်ဖြစ်ခြင်း ဓာတ်တော်များ ကျခြင်းကြည်ညိုဖွယ်

၁၉၉၁ အေဒီ ၁၉၉၁ ခု (၁၃၅၃ ခု ပြာသိုလပြည့်ကျော် (၁၃) ရက်နေ့) သက်တော် ၈၇ နှစ်၊ သိက္ခာတော် ၆၇ ဝါ အရမှာ ခန္ဓာဝန်ချတော်မူခဲ့ပါတယ်။ ဘဝသက်တမ်း (၈၇) နှစ်မှာ (၂၅) နှစ်အရွယ်ကစပြီး ခုတင်တောရဆောက်တည် ဝိပဿနာအလုပ်နဲ့သာ အဖော်ပြုရင်း (၆၂) နှစ်တိုင်တိုင် ဘာဝနာအလုပ်ထဲ နှစ်မြှုပ်ထားခဲ့တာပါ။ သာရေးနာရေး လုံးဝမကြွ၊ ငွေကို ကိုင်လည်းမကိုင် အလှူလည်း မခံခဲ့ပါဘူး၊ ရသမျှသင်္ကန်း၊ **ပစ္စည်းအသုံးအဆောင်များကို အကုန်လှူပစ် နိုင်စွမ်းရှိခဲ့တယ်။ ပျံလွန်တော်မူတဲ့အခါမှာ ပုပ်ခြင်း နံခြင်း လုံးဝမရှိ။ ပကတိ ကြည်လင်လျက်ရှိသလို အချိန်အခါမဟုတ် ကန်ကြီးမှာ ရေတွေပြည့်လျှံလာတဲ့အပြင် အရိုးမှာ ချိတ်ဆက်ဖြစ်သလို ဓာတ်တော်များလည်းကျပါသတဲ့ ဟူ၍ ဖတ်ရှုကြည်ညိုရပါသည်။**

(ကျမ်းကိုး။ ဦးစန္ဒိမ (စလင်း)၊ အကျယ်သိလိုသူ များသည် အပ္ပမာဒ ၂၀၀၂ ခု၊ ဇန်နဝါရီလ အတွဲ ၃၊ အမှတ် ၁ ။ စာမျက်နှာ ၄၆ တွင် ဖတ်ရှုတော်မူကြပါ)

စာတတ်တော်များတာဖွားဖွားကျတော်မူသည့်

မြန်အောင်မြို့ နန္ဒဝန်တိုက်ကျောင်းဆရာတော် ရဟန္တာအရှင်မြတ်ကြီး

# ဦးသာသန

ခေအဒီ ၁၉၀၅ – ၁၉၉၂ ( ၁၂၆၆ – ၁၃၅၄ )



တော်ဝင်မြို့ စာပေတိုက်



၁၉၉၂ မြန်အောင်မြို့ နန္ဒဝန်တိုက်ကျောင်းဆရာတော်ကြီးသည် ၁၉၉၂ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်၊ ၁၃၅၄ ခု ပြာသိုလဆန်း ၅ ရက်၊ တနင်္လာနေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။ ထိုစဉ်က ဆရာတော်ကြီးသည် သက်တော် ၈၉ နှစ် ဝါတော် ၆၉ ဝါ ရှိပြီဖြစ်ကြောင်း သိရပါသည်။

## လက်တော်များ ကွေးနိုင် ညွတ်နိုင်ပြီး ရနံ့မွှေးလျက်ရှိ

ထူးခြားချက်မှာ ဆရာတော်ကြီး ပျံလွန်တော်မူသည့်နေ့မှစ၍ အန္တိမအဂ္ဂိစျာပန ကျင်းပတော်မူသည့်နေ့အထိ ၉ ရက်တိုင်တိုင် အပူဇော်ခံထားရှိသော်လည်း အသားအရေမှာ သူမတူအောင်ရွှေရောင်ဝင်းလျက်ရှိသည့်အပြင် ခြေတော်လက်တော်များမှာလည်း အံ့သြဖွယ်ကောင်းလောက်အောင် ကွေးနိုင်ညွတ်နိုင်ရှိနေကြောင်း အများမျက်မြင်ဖြစ်ပါသည်။ ပုပ်သိုးခြင်းမရှိသည့်အပြင် သင်းရနံ့များဖြင့် မွှေးကြိုင်လျက်ရှိကြောင်း သိရှိရသဖြင့် များစွာကြည်ညို ပူဇော်မိပါသည်။

၁၉၉၃ ဆရာတော်ကြီးဝမ်းဗိုက်တော်ကို မခွဲမစိပ်ဘဲ မူလ ပကတိအတိုင်း ထားရှိကြောင်းကို ဗီဒီယိုရိုက်ကူး၍ပင်လျှင် အများသိသာအောင် ပြသခဲ့ကြောင်း သိရှိရပါသည်။ စံကျောင်းချ မီးသင်္ဂြိုဟ်မည့်နေ့ဖြစ်သော ၁၉၉၃ ခု၊ ဇန်နဝါရီလ ၅ ရက်နေ့ နံနက်ပိုင်းတွင် ဆရာတော်ကြီး၏ ဘုရားဒကာကြီးများ ဖြစ်ကြသော ဦးစိုးမြင့် ဆိုသူနှင့် ဦးစိန်ရွှေဆိုသူတို့က အများသိသာအောင် ဗီဒီယိုရိုက်ကူးပြသခြင်းဖြစ်ကြောင်း သိရပါသည်။

ထိုနေ့ နံနက်စောစော ၇ နာရီလောက်တွင် အခမ်းအနားကျင်းပခဲ့ကြောင်း ၎င်းနောက် ညနေစောင်း ၃ နာရီလောက်တွင် ရုပ်ကလာပ်တော်အား ကရဝိက်ဖောင်တော်ဖြင့် မြို့တွင်းသို့လှည့်လည်၍ အပူဇော်ခံသေးကြောင်း သိရှိရပါသည်။ ၎င်းဇေယျသာရီဘုရား ပရိဝုဏ်အတွင်း၌ အန္တိမ အဂ္ဂိစျာပနသဘင် ဆင်ယင်ကျင်းပခဲ့ကြောင်း သိရှိရပါသည်။

ဆရာတော်ကြီးကို သက်တော်ထင်ရှားရှိစဉ်က ဖူးမြော်ဖူးသူအပေါင်းတို့ကလည်း ဆရာတော်ကြီးမှာ တရားစကားမှလွဲ၍ အခြားစကားပြောလေ့မရှိကြောင်း၊ ဆရာတော်ကြီးသည် အနေအထိုင် အပြောအဆိုဟန် အမူအရာတို့မှာ ပြောမယုံကြဲဖူးမှသိရအောင် လွန်စွာနူးညံ့သိမ်မွေ့ ကြည်ညိုဖွယ်ရာဖြစ်ကြောင်း ပြောဆိုကြပါသည်။

ဆရာတော်ကြီးသည် မြန်အောင်မြို့ ဝေဠုဝန်နိကာယ၏ မဟာနာယက ဖြစ်တော်မူကြောင်း သိရှိရပါသည်။ ဝေဠုဝန်နိကာယ အစဉ်အလာအရ ရက်ကြာကြာ မထားရကြောင်း သိရှိရပါသည်။ သို့သော်လည်း ၉ ရက်တိတိ ထားရှိပြီးသည့်နောက် စျာပနသဘင်ကို ဆင်ယင်ကျင်းပကြသည်မှာ နာယကဆရာတော်ကြီးများ၏ ထောက်ထားငဲ့ညှာမှုကြောင့်ဖြစ်ကြောင်း သိရှိရပါသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်

ဆရာတော်ကြီးသည် မိမိသီတင်းသုံးတော်မူရာ မြန်အောင်မြို့ နန္ဒဝန်ကျောင်းတိုက်အတွင်း၌ မိုးကုတ်ဝိပဿနာအဖွဲ့ခွဲ အမှတ် ၇၁ ကို တည်ထောင်ခဲ့ခြင်းဖြစ်ကြောင်း သိရှိရပါသည်။ ဆရာတော်ကိုယ်တိုင်ပင်လျှင် ကမ္မဋ္ဌာနာစရိယအဖြစ် တာဝန်ထမ်းဆောင်ခဲ့ကြောင်းသိရပါသည်။ နည်းနိဿယမှာ အဂ္ဂမဟာပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဥပနိဿယအတိုင်း ဝိပဿနာတရားကို ပြသခြင်းဖြစ်ကြောင်း သိရှိရပါသည်။

ဆရာတော်ကြီးကိုယ်တိုင် ဟောပြောသည်ကို ကြားနာဖူးသူတို့က ပြောဆိုသည်မှာ - ဆရာတော်ကြီးသည် တရားဓမ္မဟောပြောပြသရာတွင် အံ့သြဖွယ်ရာကောင်းလောက်အောင် အသံတော်သည်



ကြည်ကြည်လင်လင်ရှိကြောင်းကိုလည်းကောင်း၊ ဆရာတော်ကြီးသည် အများပရိသတ် ထင်လွယ် မြင်လွယ် သိလွယ် ကြားလွယ် ခံစားလွယ်အောင် ဥပမာ ဥပစာများဖြင့် ဟောပြောလေ့ရှိခြင်းကြောင့် အားလုံးက ကြားနာ၍ မဝနိုင်အောင် ဖြစ်ကြရကြောင်း ဝန်ခံပြောဆိုပါသည်။

## မြန်အောင် ဇာတိ

ဆရာတော်၏ ဘွဲ့တော်မှာ ဦးသာသနဖြစ်ကြောင်း၊ မွေးချင်းမှာ ၂ ယောက်မျှရှိကြောင်း၊ ဆရာတော်ကြီးက အကြီးဖြစ်ကြောင်း သိရပါသည်။ ထို့ထက် ပို၍မသိရပါ။ မိခင် ဖခင်တို့မှာ ဦးသန်း ဒေါ်ရွှေဘွဲ့ဖြစ်ကြောင်း သိရပါသည်။

ဇာတိမှာ မြန်အောင်မြို့နယ် ရိုက်ကျေးရွာ ဇာတိဖြစ်ကြောင်း ငယ်စဉ်အခါက ရိုက်ကျေးရွာ အရှေ့ကျောင်းဆရာတော် ဦးအာစရ ဆရာတော်ထံတွင် အခြေခံပညာသင်ကြားခဲ့ကြောင်းသိရှိရပါသည်။ ရှင်သာမဏေ ဖြစ်သောအခါ ဘွဲ့တော်မှာ ရှင်သာသနဖြစ်ကြောင်း သိရပါသည်။

၁၉၂၄ အေဒီ ၁၉၂၄ ခု (၁၂၈၆ ခုနှစ်) တွင် မြန်အောင်မြို့ နန္ဒဝန်ကျောင်းတိုက် ပထမဆရာတော်ကြီး ဦးအရိယဝံသကို ဥပဇ္ဈာယ်ပြု၍ ရိုက်ကျေးရွာနေ ဦးမွန်း ဒေါ်ရွှေရတို့၏ ပစ္စယာနုဂ္ဂဟာကို ခံယူကာ ရဟန်းဘဝသို့ ရောက်တော်မူကြောင်း သိရှိရပါသည်။

## ရန်ကုန် မန္တလေး ပခုက္ကူ စာသင်သား

ရဟန်းဘဝတွင် စာသင်ကြားယင်း ရန်ကုန်မြို့ နှစ်ကျိပ်ရှစ်ဆူကျောင်းတိုက်တွင်လည်း စာသင်ရင်း သီတင်းသုံးနေထိုင်ခဲ့ရကြောင်း၊ ၎င်းအပြင် မန္တလေးမြို့ စကုတိုက်တွင်လည်း နေထိုင်သီတင်းသုံးဖူးကြောင်း၊ ၎င်းအပြင် ပခုက္ကူမြို့ မဟာဝိသုတာ ရာမ ကျောင်းတိုက်တွင်လည်း နေထိုင်သီတင်းသုံးဖူးကြောင်းသိရပါသည်။

## မိုးကုတ်ဆရာတော်ထံ တပည့်ခံ

ထိုထိုသော ပါဠိ အဋ္ဌကထာ ကျမ်းစာတို့ကို သင်ကြားတော်မူခဲ့ကြောင်း သိရှိရပါသည်။ ထို့နောက်မှသာ အမရပူရမြို့သို့ ရောက်ရှိတော်မူပြီး မဂ်လာတိုက်ဟောင်းကျောင်းတိုက်တွင် အဂ္ဂမဟာပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိမလထံတော်၌ အဘိဓမ္မာ ညဝါကျမ်းစာများကို ဆက်လက်သင်ကြားတော်မူခဲ့ကြောင်း သိရှိရပါသည်။ ဤသို့ဖြင့် မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိမလ၏ တပည့်ရင်းဖြစ်ခဲ့လေသည်။

၁၉၄၀ ၎င်းနောက် ဦးသာသနသည် ဇာတိချက်ကြွေ ရိုက်ကျေးရွာသို့ တစ်ဖန် ပြန်လည်ကြွရောက် သီတင်းသုံးခဲ့ပြန်သည်။ ထိုနောက်တွင်မှ ဆရာတော်ကြီးများ၏ တိုက်တွန်းချက်အရ မြန်အောင်မြို့ နန္ဒဝန်ကျောင်းတိုက်ကို လွှဲပြောင်းခြင်းခံရ၍ အုပ်ချုပ်တော်မူခဲ့ရကြောင်း သိရှိရပါသည်။ ထိုနှစ်သည် အေဒီ ၁၉၄၀ ခု (၁၃၀၂ ခု) ဖြစ်၍ သက်တော်မှာ ၃၆ နှစ်ရှိပြီး ဖြစ်ကြောင်းသိရှိရပါသည်။

ဆရာတော်ကြီးသည် အဘိဓမ္မာသင်တန်းကို နှစ် ၃၀ တိုင်တိုင် နေ့စဉ် ရက်ဆက် ပို့ချခဲ့ကြောင်း သိရပါသည်။ ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ် လျှောက်ထားခဲ့ဖူးသည်မှာ အမှတ်တရဖြစ်ပါသည်။

**ယခုခေတ်တွင် ရဟန္တာရှိပါသလား၊ ဖူးတွေ့နိုင်ပါသလား၊ ဟုလျှောက်ထားကြရာ ဆရာတော်ကြီးက**

**ဟ . . . ရဟန္တာ ဆိုတာ ငါ့လိုပဲပေါ့ဟ၊ ဆွမ်းစားတယ်၊ သွားတယ်၊ လာတယ်၊ ကျင်ကြီးကျင်ငယ်စွန့်တာပေါ့ ဟ'ဟု မိန့်ကြားခဲ့ဖူးလေသည်ဟု သိရပါသည်။**



(ကျမ်းကိုး၊ ချစ်ကိုကို (ရွှေမိုင်) စာတတ်တော်ကျသည့် မြန်အောင် နန္ဒဝန်ဆရာတော်ကြီး ပါရမီမဂ္ဂဇင်း ၂၀၀၁ ခု၊ အောက်တိုဘာလ စာ ၆၉-၇၀)

ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က ထူးခြားမှုကို ဖူးမြော်ခဲ့ရသူများ ရှိကြောင်း သိရပါသည်။

ပျဉ်ထောင်တွင်းရွာမှ ဒကာများနှင့် မြန်အောင်မှ ဒကာမကြီး ဒေါ်ချောတို့ကမူ ဆရာတော် စင်္ကြံကြွနေစဉ် အမှတ်တမဲ့ ဖူးမြော်မိရာ ဆရာတော်၏ ထူးခြားမှုကို ဖူးခဲ့ရလေသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၇၀ )

အမှတ်တမဲ့ သွားရောက်ဖူးမြော်မိရာ ဆရာတော် စင်္ကြံကြွသည်မှာ ခြေထောက်မြေနှင့် လွတ်နေသည်ကို ဖူးမြော်ရသည်။

(ကျမ်းကိုး၊ ဝင်းတင့်ဦး ကြံခင်း၊ မြန်အောင်မြို့ နန္ဒဝန်ဆရာတော်ကြီး ထူးခြားသည့် ဖြစ်ရပ်ဆန်းများ၊ သူရဿမဂ္ဂဇင်း၊ ၂၀၀၅ ခုနှစ်၊ ဩဂုတ်လ စာ ၄၂)

၁၉၉၂ မြန်အောင်မြို့ နန္ဒဝန်တိုက်ကျောင်းဆရာတော်ကြီးသည် ၁၉၉၂ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်၊ ၁၃၅၄ ခု ပြာသိုလဆန်း ၅ ရက်၊ တနင်္လာနေ့ နံနက် ၆ နာရီ မိနစ် ၃၀ တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။ ထိုစဉ်က ဆရာတော်ကြီးသည် သက်တော် ၈၉ နှစ် ဝါတော် ၆၉ ဝါ ရှိပြီဖြစ်ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၇၀)

ဆရာတော်ကြီးပျံလွန်တော်မူသွားပြီး ရုပ်ကလာပ်တော်ကို ယခင်ကကဲ့သို့ပင် ခုတင်ပေါ်တွင်ပင် ကျိန်းစက်နေဘိအလားကို ရက်အကြာထားသော်လည်း မသိုးမပုပ်ဘဲ အသားတော်ဖြူစင်ဝင်းအိ ပကတိသက်ရှိ ခန္ဓာကဲ့သို့ပင်ရှိနေသည်။

**ဆေးထိုးသောအခါ သွေးထွက်ခြင်း**

ပျံလွန်တော်မူသည့်နေ့ နေ့လယ် ၁၁ နာရီခွဲတွင် ရေချိုးရာ ကိုယ်ခန္ဓာမှာ ပူနွေးနေဆဲပင်ဖြစ်သည်။ ကြာရှည်ခံစေရန် ဆေးထိုးကြရာ သွေးထွက်နေကြောင်း ထူးခြားစွာတွေ့ရသည်။

ကိုးရက်ကြာ ခေါင်းမသွင်းဘဲ ထားပါသော်ငြား ကြာညိုနံ့သင်းနေသည်။ လုံးဝမပုပ်ပါ။ ထူးခြားသည်မှာ -

၁။ ရုပ်ခန္ဓာမှာ မဖောက်ပြန်ဘဲ ပကတိအတိုင်း ဝါဝင်းစွာ ရှိခြင်း။

၂။ ခြေလက်အင်္ဂါများ ပျော့ပျောင်းစွာဖြင့် ကွေး၍ ဆန့်၍ရခြင်း။

၃။ ညှိကွက်ပုပ်အဲ့ အနံ့ထွက်ခြင်းမရှိ၊ သန့်ရှင်းလှပစွာ ကြာညိုနံ့မွှေးနေခြင်း။

၄။ ကိုးရက်ပြည့်မှ မှန်ခေါင်းတော်သွင်းရာ၊ သွင်းခါနီးအထိ ခြေတော် လက်တော်တို့ကို တရားထိုင်နေသည့်ပုံတော် ပြုလုပ်ကြရာ ရခြင်း။

၅။ သင်္ချိုင်းတော်တွင် မီးပူဇော်ရာ အများသူငါကဲ့သို့ ရုန်းခြင်း၊ ကုန်းခြင်းမရှိ၊ လန့်စရာမရှိဘဲ မီးစွဲလောင်ခြင်း၊ ခြေဖျားမှ တစ်ဆင့်ပြီးတစ်ဆင့် မီးစွဲလောင်ပြီး လုံးဝညှော်နံ့နံခြင်းမရှိဘဲ၊ မီးခိုးဖြူဖြူတို့နှင့် လောင်ခြင်း။ ခေါင်းအုံးနှင့် ဦးခေါင်းတော်မှာ နောက်ဆုံးကျမှ မီးစွဲလောင်ခြင်း။

**ဓာတ်တော် အရှယ်စုံ ပူးမြော်ရခြင်း**

မီးပူဇော်ပြီး ၁၁ ရက်အကြာ အရိုးပြာကောက်ကြရာ ထူးခြားစွာဓာတ်



တော်များကို အခဲသဖွယ် အရွယ်စုံဖူးတွေ့ရပေသည်။

ဆရာတော်ကြီး ရုပ်ကလာပ်တော် မီးပူဇော်ရာနေရာမှာ မြန်အောင်၊ မင်းကန်ကြီးကျောင်းအနီး ဇေယျာသာရီဘုရားကြီး၏ ရှေ့ကွင်းပြင်တွင် မီးသင်္ဂြိုဟ်ပြီးသော ညမှစ၍ ဓာတ်တော်များ မြူးသဖြင့် လာရောက်ဖူးမြော်ကြသူများ များပြားလှ၏။ ဘာသာခြားများပင် အံ့သြစွာ လာရောက်ဖူးကြသည်။

ထိုဓာတ်တော်ပြာများကို ကောက်ယူပြီး သွားတော်ဓာတ်၊ အရိုးဓာတ်နှင့် ကိုရင်လေးထံမှ ခွဲယူထားသော ဆံတော်ဓာတ်တော်များထားရှိ သိတင်းသုံးရာ နန္ဒဝန်ကျောင်းတိုက်ကြီး အလယ်တိုက်တွင် အမိုးပြာသဒ်မှ အလင်းရောင်များ ထူးဆန်းစွာ ဖြာထွက်ကွန့်မြူး ထွန်းလင်းနေသည်ကို တပည့်ဒါယကာတို့ မကြာခဏ ဖူးတွေ့ရပေသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၇၁ )

တစ်ခါက ကိုရင်လေးတစ်ပါးသည် ဆရာတော်၏ ဆံပင်များကို ခေါင်းရိတ်ပေးနေစဉ် ထိုဆံပင်များအား မြတ်နိုးစွာ ပုလင်းထဲသို့ထည့်၍ သိမ်းဆည်းထားပြီး ရှင်လူထွက်သွားသောအခါ မိမိအိမ်သို့ယူကာ အိမ်ရှိဘုရားခန်းတွင် ထားရှိလေသည်။

နှစ်နှစ်ခန့်အကြာ ဆရာတော်ကြီး ပျံလွန်တော်မူပြီးနောက် ဓာတ်တော်များ ကျကြောင်း ပြောသံကြားသဖြင့် မိမိသိမ်းထားသော ဆရာတော်ကြီး၏ ဆံတော်ပုလင်းကို ပြန်ကြည့်ရာ ဆံတော်များသည် စုရုံး၍ အလုံးပုံသဏ္ဍာန် ဖြစ်နေကြောင်း အံ့သြစွာ တွေ့ရလေသည်။

(ကျမ်းကိုး၊ယင်းကျမ်း၊ စာ ၇၁ )

နန္ဒဝန်ဆရာတော်ကြီး နောက်ဆုံးမှာတမ်းစာ ရေးသားခဲ့သော ဆရာတော်ကြီး၏ လက်ရေးမူကိုလည်း တွေ့ရှိရရာ ထိုစာတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

သြော် . . . နိဗ္ဗာန် အမတ၊ မရသေးသူ သတ္တဝါ ဟူသမျှ သခ်ီရမို့ အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အိုရ၊ နာရ၊ သေရစမြဲ ပျက်ရစမြဲ ရှောင်လွှဲမရဘဲ ငါလည်း သေရဦးမည်ပါတကား။

အဓုဝံ မေ ဇီဝိတံ ငါ၏ အသက်ကား မမြဲ။

ဓုဝံ မေ မရဏံ ငါ၏ သေခြင်းကား မြဲ၏။

ငါသည် မချွတ် သေရမည်သာတည်း။ ငါ၏ အသက်သည် သေခြင်းသာလျှင် အဆုံးရှိ၏။ ငါလည်း မုချသေရမည်။ အချိန်ပိုင်းသာ လိုတော့သည်။

**ဆရာတော်ဘုရားကြီး၏ ဓာတ်တော်များသည် နံ့သာဆီ ရေမွှေးတို့ မထည့်ပါဘဲ ကြာညိုနံ့သင်းကာ ထူးဆန်းလှစွာ မွှေးကြိုင်လှပေသည်ဟု သိရပါသည်။ ဆရာတော်ကြီး၏ ဓာတ်တော်များကို ရောဝတီတိုင်း မြန်အောင်မြို့၊ ဘဒလင်ရပ်၊ နန္ဒဝန် ဝိပဿနာ ရိပ်သာကျောင်းတွင် ဖူးမြော်နိုင်ကြောင်း သိရှိရပါသည်။**

(ကျမ်းကိုး၊ (၁) ဝင်းတင့်ဦး ကြံခင်။ မြန်အောင်မြို့ နန္ဒဝန်ဆရာတော်ကြီး ထူးခြားသည့် ဖြစ်ရပ်ဆန်းများ။ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၅ ခုနှစ်၊ ဩဂုတ်လ စာ ၄၄ )

(ကျမ်းကိုး၊ (၂) ချစ်ကိုကို (ရှစ်မိုင်) ဓာတ်တော် ကျသည့် မြန်အောင် နန္ဒဝန်ဆရာတော်ကြီး၊ ပါရမီမဂ္ဂဇင်း ၂၀၀၁ ခု၊ အောက်တိုဘာလ၊ အမှတ် ၁၀၉၊ စာ ၆၉-၇၀)

ဖ ဖ ဖ

ယနေ့တိုင် ရုပ်ကလာပ်တော်ကို ဖူးမြော်နိုင်သေးသော

# သံတွဲမြို့နယ် ဇလွန် ( မဒေး ) ဆရာတော်

# ဦးသုဇာတ မဟာထေရ်မြတ်

ခေအဒီ ၁၉၀၄ – ၁၉၈၄ (၁၂၆၆ – ၁၃၄၆ )



တော်ဝင်မြို့



မြန်မာပြည် မြင်းခြံစွန်းလွန်း ဆရာတော်ဦးကဝိ ပျံလွန်တော်မူခဲ့လေရာ ကြွင်းကျန်လျက်ရှိသော ဥတုဇ ရုပ်ကလာပ်တော်မှာ မပုပ်မသိုးကြောင်း အရှင်မြတ်သည် ရဟန္တာဖြစ်ကြောင်း သတင်းရနံ့တို့ သင်းပျံ့ကာ နေကြစဉ်ကာလက ဖြစ်ပါသည်။

ထိုမြင်းခြံ ရဟန္တာ စွန်းလွန်းဆရာတော် ဦးကဝိ အရှင်မြတ်၏ ထေရုပ္ပတ္တိ စာအုပ်တွေကလည်း သံတွဲမြို့နယ် အတွင်း ပျံ့နှံ့လျက်ရှိ၏။ ထိုထေရုပ္ပတ္တိ စာအုပ်ကို ဇလွန် မဒေးဆရာတော် ဦးသုဇာတလည်း ဖတ်ဖူးသည်ဟု ဆိုပါသည်။

ဆရာတော်ဘုရား ဖတ်ရှုရပြီးနောက် (၂)နှစ်ခန့်အကြာ သက်တော်(၆၀)နှစ် သိက္ခာတော် ဝါ(၄၀) အရတွင် သာယာကွင်းကျေးရွာ ဦးလှညွန့် စသော ဒါယကာကြီးများကို တပည့် ဒကာတို့ အောက်ပါအတိုင်း ထူးထူးခြားခြား မိန့်တော်မူကြောင်းသိရပါသည်။

**"ငါပျံလွန်တော်မူရင် မပုပ်မသိုးတော့ဘူး ဒါ့ကြောင့်မို့ ငါ့ရဲ့ခန္ဓာကိုယ်ကို မီးမှာလဲ မရှို့ကြလေနှင့် မြေမှာလဲ မမြှုပ်နဲ့ ရေမှာလဲ မမျှောကြလေနှင့် အာရုံခြောက်ပါး တံခါးခြောက်ပေါက်ကို ရည်ရွယ်သောအားဖြင့် အပေါက်ခြောက်ပေါက်ပါ ရှိသော ဂူကို ပြုလုပ်၍ ဥတုဇခန္ဓာ အလောင်းကို ဂူထဲမှာထည့်ထားကြပါ" ဟု ရဲရင့်တည်ကြည်သော ဣန္ဒြေဖြင့် မိန့်တော်မူလေတော့၏**

(ကျွမ်းကိုး၊ သံတွဲမြို့ မြို့မဝေဠုဝန် ပဝါရဏာ အုပ်စုကြီး၏ ဂဏဥဒ္ဒေါင်ဖြစ်တော်မူသော ဇလွန်(မဒေး) ဆရာတော် အရှင်သုဇာတ မဟာထေရ်မြတ်၏ ထေရုပ္ပတ္တိကထာကိုပြုစုသူ ကျမ်းပြုဆရာ အရှင်ရေဝတဆရာတော်က ရေးသားပူဇော်ခဲ့ပါသည်။)

၁၉၈၄ ဆရာတော် ဦးရေဝတ၏ စာထဲတွင် ကြည်ညိုဖွယ်ရာ ထူးခြားဂုဏ်ရည်များကို တင်ပြထားခဲ့ပါသည်။ ဇလွန် ( မဒေး ) ဆရာတော် ဦးသုဇာတသည် သက်တော် ( ၈၀ ) ဝါတော် ( ၆၀ ) အရောက် ၁၃၄၆ ခု တန်ဆောင်မုန်းလဆန်း ၂ ရက်နေ့ ညနေ ၂ နာရီ ၄၅ မိနစ် (၁၉၈၄ ခု အောက်တိုဘာလ ၂၅ ရက် )နေ့တွင် ပျံလွန်တော်မူခဲ့ရာ နှစ်ပေါင်း ၂၀ ကျော် ကြာသည့်တိုင်အောင် ရုပ်ကလာပ်တော်မှာ မပုပ်မသိုး ထူးခြားစွာ ယနေ့တိုင် ဖူးမြော်ရပါသည်။

ဇလွန်မဒေး ဆရာတော်ကြီး၏ တပည့်ဖြစ်သူ အရှင်ရေဝတသည် ဆရာတော်ကြီး၏ မဟာ ရုပ်ပုံလွှာတော်ကို ခြယ်မှုန်းခဲ့ပါသည်။ ထို့ကြောင့်သာလျှင် နောင်လာနောက်သားတို့ ပြည့်စုံစွာ သိရခြင်း ဖြစ်ပါသည်။ ဦးရေဝတ၏ ကျေးဇူးကြောင့် အောက်ပါအချက်များကို သိခဲ့ရပါသည်။

ဆရာတော်ကြီး၏ တစ်ရက်တာ ၂၄ နာရီ၏ အဓိကလုပ်ငန်းကိစ္စမှာ အောက်ပါအတိုင်းဖြစ် သည်ဟု လေ့လာတွေ့ရှိရပါသည်။

ကျိန်းစက်ချိန်မှအပ ပုတီးကိုလက်က မချမူ၍ အမြဲတမ်း ပုတီးစိပ်ခြင်း၊

တရားကိုသာ နှလုံးသွင်း၍ အချိန်ကို ကုန်လွန်စေခြင်း၊

ကျိန်းစက်သည့်အချိန် တစ်ရက်မှာ ၄ နာရီ လောက်သာရှိခြင်း၊

အဘိညာဉ်တန်ခိုးသတ္တိရှိသည်ကို လက်တွေ့သာကေများရှိ၍ အဘိညာဉ်ရ ပုဂ္ဂိုလ် ဖြစ်နိုင်ခြင်း၊

တပည့် ဒကာ ဒကာများနှင့် တွေ့ဆုံရခိုက် တရားစကားကိုသာ ဟောပြောဆိုဆုံးမခြင်း၊

လောကီလူမှု ကိစ္စအကြောင်းအရာကို ပြောဆိုမှု အလွန်နည်းပါးခြင်း၊



တစ်ပါးသူ၏ အကျိုးမဲ့ဖြစ်စိမ့်သောငှာ အတင်းအဖျင်း စကားကို လုံးဝပြောဆိုမှု မရှိခြင်း၊

တပည့်ရဟန်းသံဃာများအား ဝိနည်း သိက္ခာတော်ကို အလေးအနက်ထား စောင့်ရှောက်ကြရန် အမြဲဩဝါဒပေးခြင်း၊

ကိုယ်တော်တိုင်လည်း ဝိနည်းသိက္ခာကို အလေးဂရုပြု စောင့်ရှောက်တော်မူခြင်း၊ ပလိဗောဓ အသုံးအဆောင် အသစ်အဆန်းများကို အလိုဆန္ဒ အလွန်နည်းပါးပြီး ခေါင်းပါးစွာ ကျင့်ကြံနေထိုင်တော်မူနိုင်ခြင်း၊

ဒကာ ဒကာမတို့အား တရားအားထုတ်ကြရန် အမြဲတစေ သတိပေး တိုက်တွန်းတော်မူခြင်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၉-၅၀)

ဆရာတော်ကြီးသည် အပြောက သာမညသာဖြစ်၍ အလုပ်က ပဓာန ဖြစ်သည်ဟု သိရပါသည်။ ကြိုးကြိုးစားစား တရားအားထုတ်သူ ဒကာမ ဒကာမတို့အား အလွန်သဘောကျတတ်ခြင်းတို့မှာ ဆရာတော်ဘုရားကြီး၏ ကြည်ညိုဖွယ်ရာကောင်းသည့် ထူးခြားသော ဂုဏ်ရည်များ ဖြစ်ပါကြောင်း ဆရာတော်ကြီး၏ တပည့်အရင်း အရှင်ရေဝတက ဖော်ပြခဲ့ပါသည်။

(ကျမ်းကိုး၊ အရှင်ရေဝတ၏ ကောင်းမှုကြောင့်ပင်လျှင် ကျွန်ုပ်တို့သည် အလွန်ထူးခြားလှစွာသော ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ ပေါ်င်းချုပ်ကြီးတွင် ဇလွန် (မဒေး) ဆရာတော်ကြီး၏ ထေရုပ္ပတ္တိကထာကို ဖော်ပြနိုင်ခြင်းဖြစ်ပါသည်။ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၏ အကြောင်းအရာများကို တတ်သမျှ မှတ်သမျှ စုဆောင်းထားကြပါလျှင် သာသနာ ၅၀၀၀ တည်တံ့အောင် ကြိုးပမ်းသူများစာရင်းတွင် သင်လည်း အပါအဝင် ဖြစ်ပါလိမ့်မည်။ သာသနာ့အကျိုးဆောင်များဖြစ်ကြပါလိမ့်မည်။)

ယခု အရှင်ရေဝတထံမှ သိရသမျှကို ပြန်လည်ကောက်နုတ် ဖော်ပြပါမည်။

၁၉၀၄ ဇလွန်ဆရာတော် ဖြစ်လတ္တံ့သော ပုဂ္ဂိုလ်ကျော်ကို အေဒီ ၁၉၀၄ ခု၊ စက်တင်ဘာလ ၉ ရက်၊ (၁၂၆၆ ခုနှစ် တော်သလင်းလဆန်း ၁ ရက်) သောကြာနေ့တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူလေသည်ဟု သိရပါသည်။

(ယင်းကျမ်း စာ၊ ၂)

ဆရာတော်ဘုရား၏ ဆွေစဉ်မျိုးဆက်ကို လေ့လာစုံစမ်းရာ အောက်ပါအတိုင်း တွေ့ရှိရပါသည်။

ခမည်းတော်မှာ ဦးတာနီဖြစ်၏။ မယ်တော်မှာ ဒေါ်စိမ်းဖြစ်၏။ သား(၃)ယောက် သမီး(၂)ယောက်ရှိ၏။ ၎င်းတို့မှာ မောင်ဖိုးစိန် , မမြနု , မမြတ်ညွန့်, မောင်စိန်ဖိုးနှင့် မောင်ကျန်ပွင့် တို့ဖြစ်ကြသည်။ မောင်စိန်ဖိုးသည် ဦးသုဇာတ ဖြစ်လာ၏။

## လူထွက်ခြင်း

မောင်စိန်ဖိုးသည် သာမဏေဝတ်ဖြင့် သာသနာတော်တွင် မွေ့လျော်သမျှ နေပြီးသည့်နောက် လူဝတ်လဲကာနေပြန်ပေသည်။ ၎င်းနောက် လူဝတ်ဖြင့် မိဘများနှင့်အတူ လယ်ယာကိုင်းကျွန်းလုပ်ကိုင်ပြီး ၁၇ နှစ်သားအရွယ်သို့ ရောက်ရှိလာ၏။ ထိုအခါ ဦးတာနီ၊ ဒေါ်စိမ်း မိသားစုတို့သည် အကြောင်းအမျိုးမျိုးကြောင့် သံတွဲမြို့နှင့် ၉ မိုင်ကွာ မဲနယ်ကွင်း ကျေးရွာသို့ ပြောင်းရွှေ့လာခဲ့၏ဟု ဆိုပါသည်။



## ရဟန်းပြုပြန်ခြင်း

ထိုသို့ မဲနယ်ကွင်းကျေးရွာသို့ ရောက်ပြန်သောအခါ ထိုရွာတွင် တီးဝိုင်းဖြင့် အပျော်ကြူးနေခဲ့ကြောင်း သိရှိရပါသည်။ ၎င်းနောက် အဆိုပါ မောင်စိန်ဖိုးသည် အတိတ်က ပါရမီ နှိုးဆော်သဖြင့် သာသနာ့ဝန်ထမ်း ရှင်ရဟန်းပြုပြန်လေသည်ဟု သိရပြန်ပါသည်။ ဦးစွာပထမ သာမဏေဝတ်၏။ ရှင်သုဇာတဟု အနွတ္ထသညာ မှည့်ခေါ်ကြ၏။

၁၉၂၄ ရှင်သုဇာတသည် ဆရာတော်ဘုရားထံတွင် သာမဏေဝတ်ဖြင့် ရှင်ကျင့်ဝတ် သဂြိုဟ်စာပေများကို သင်အံလေ့ကျင့်ပြီး ပညာရင်နို့ သောက်စို့၍ အသက် (၂၀) ပြည့်လာသောအခါတွင် ဂုံးဇရစ်ကျေးရွာ ဥဒကုက္ခေပ ရေသိမ်တွင် မဒေါ့စမ်း ဆရာတော် ဦးဒီပကို ဥပဇ္ဈာယ်ပြု၍ ရဟန်းတော်များ ခြံရံလျက် ရဟန်းဒါယကာ ဦးစံဒွန်း ခမည်းတော် မယ်တော်တို့နှင့် ဂုံးဇရစ်ကျေးရွာ ဒါယကာ ဒါယိကာမကြီး ငယ်တို့၏ ပစ္စယာနုဂ္ဂဟကိုခံယူလျက် ၁၉၂၄ ခု၊ ၁၀ နိုဝင်ဘာ (ကောဇာသက္ကရာဇ် ၁၂၈၆ ခု တန်ဆောင်မုန်းလဆန်း ၁၅ ရက်) တနင်္လာနေ့ နံနက်အချိန်တွင် ပဉ္စင်းအဖြစ်သို့ ရောက်တော်မူလေသည်။

၎င်းနောက် အရှင်သုဇာတသည် သရက်ပင်ကျေးရွာတွင် သတင်းသုံးနေတော်မူသော ဘဒ္ဒန္တ သီလဝံသ ဆရာတော်ဘုရား ထံတွင် (၄) နှစ်တိုင် ပါတိမောက် သဂြိုဟ်သဒ္ဒါကြီးစသော စာပေများကို သင်ကြားပြီး၍ ရခိုင်ပြည်နယ်၊ မာန်အောင်ကျွန်း တောင်ကျောင်း ကမားဆရာတော် ဘဒ္ဒန္တအဂ္ဂထံတွင် ပညာသင်ကြားရန် ကြွတော်မူလေသည်။ ၎င်းနောက် ဇာတိချက်ကြွေ မွေးရပ်မြေသို့ ပြန်ခဲ့ပြန်လေသည်။

၁၉၂၉ ကမားဆရာတော်ထံတွင် (၁)နှစ်ခန့် စာပေဆည်းပူးပြီးလျှင် ဇာတိချက်ကြွေမွေးရပ်မြေသို့ ပြန်ကြွလာခဲ့လေသည်။

## ဇာတိမှာ (၁) ဝါ

၁၂၉၁ ခု ( ၁၉၂၉ ) ခုနှစ်တွင် မိုးဦးကာလအချိန်တွင် ဇလွန် (မဒေး) အိမ်ခြေ ၆၀ ခန့်ရှိသော ကျေးရွာ၏အလယ် တောင်ပူစာလေးတွင် ဝါးကျောင်း၌ (၁) ဝါ သီတင်းသုံးတော်မူလေသည်။

## တောင်ထိပ်မှာ (၅) ဝါ

ထိုမှ တစ်ဖန် တောင်ပူစာထိပ်တွင်ရှိသော ဝါးကျောင်းလေး၏ မြောက်ဘက် ကိုက် ၄၀ အကွာ မြေနေတွင် သစ်သားကျောင်းဆောင်တွင် ၅ နှစ်တိုင် သီတင်းသုံးခဲ့ပြန်သည်။

## ကျားအိုမှာ (၃) ဝါ

၎င်းနောက် ကျားအိုကျေးရွာတွင် ၃ နှစ်မျှ သီတင်းသုံးတော်မူပြန်သည်။ ထိုအခါ သက်တော် ၃၃ နှစ်သို့ ရောက်ရှိလေပြီ။

## ကျားကိုက်ရွာမှာ (၂) ဝါ

ဘာဝနာကမ္မဋ္ဌာန်း အားထုတ်လိုသော ဆန္ဒတော် ရှိရကား လူသူမနီး ကျားကိုက်ရွာ



အနီး၌ တောကျောင်းတစ်ဆောင်တွင် တစ်ပါးတည်း (၂)ဝါမျှ ကေစာ ကျင့်ကာ ရဟန်းတရား အားထုတ်ခဲ့လေသည်။

**အတူး ရွာမှာ (၂) ဝါ**

၎င်းနောက် သံတွဲချောင်းဖျားတွင်ရှိသော အိမ် ၁၅ အိမ်မျှသာရှိသော အတူးကျေးရွာတွင် (၂) ဝါမျှ ကြွရောက် စောင့်ရှောက် သီတင်းသုံးခဲ့ပြန်သည်။

**နောက်ထပ် (၃) ဝါ**

၎င်းနောက် အတူးကျေးရွာနှင့် သံဒီကျေးရွာ ရွာနှစ်ရွာ ပေါင်းစုကိုးကွယ်မှုကြောင့် (၃)နှစ်မျှ ထပ်မံ သီတင်းသုံးခဲ့ရပြန်ပေသည်။

**ရွာရှည်မှာ (၃) ဝါ**

၎င်းနောက် မူလ ဇလွန်ကျောင်းသို့ ပြန်လည်ကြွရောက် သီတင်းသုံးပြန်ပေသည်။ ၎င်းနောက် ရွာရှည်ကျေးရွာရှိ တပည့်များအား သနားငဲ့ညှာ၍ (၃)နှစ်မျှ သီတင်းသုံးခဲ့ပြန်သည်။

**စုစုပေါင်း (၃၁) ဝါ**

၁၉၄၆ ထိုအချိန်တွင် ဆရာတော်ကြီးမှ သက်တော်(၅၁) သိက္ခာတော်(၃၁)ဝါသို့ ရောက်ရှိလာခဲ့ပေသည်။ ၁၃၀၈ ခု ကဆုန်လ ( ၁၉၄၆ မေလ)တွင် ဇလွန်ရွာ၏ မြောက်ဘက် ၆ ဖာလုံရွာတွင်ရှိသော စမ်းတောင်တွင် ပဋိပတ် အကျင့်များကို အားထုတ်လျက် (၄)နှစ်မျှ သီတင်းသုံးနေတော်မူခဲ့သည်။

ဤသို့ဖြင့် ဆရာတော်ကြီးသည် တောစဉ်တောင်စဉ် လှည့်လည်လျက် တပည့်များကို ငဲ့ညှာသောအားဖြင့် ဝါဆိုတော်မူခဲ့လေသည်။ ထိုအတောအတွင်းမှာလည်း မိမိ၏ ပဓာန တရားလုပ်ငန်းများကို စွမ်းစွမ်းတမံ ပြုလုပ်ခဲ့သည်ဟု သိရှိရပါသည်။ အောက်ပါအချက်ကိုကြည့်ပါ။

**တစ်နေ့လျှင် ပုတီးအပတ်တစ်ထောင်**

**တရားဓမ္မအလုပ် အားထုတ်ခြင်း၌ ဇွဲ လုံ့လ ဝီရိယအလွန်ကြီးမားသော ဆရာတော်ဖြစ်ပေသည်။ ကိုယ်တိုင်မိန့်ကြားဖူးသည်မှာ အာနာပါန ကမ္မဋ္ဌာန်းတရားကို အထူးကြိုးစားသူအဖြစ် တစ်နေ့လျှင် ကေသာ လောမာ စသော သုံးဆယ့်နှစ်ကောဋ္ဌာသကို ပုတီးအပတ် ၁၀၀၀ စေ့အောင် စိပ်ပြီးမှ ကျိန်းစက်သည်ဟု အမိန့်ရှိခဲ့ဖူးပါသည်။**

ထို့သို့ မလျှော့သော ဇွဲ လုံ့လ ဝီရိယအားကြီးစွာဖြင့် တရားအလုပ်ကို ကြိုးစားခဲ့လေသောကြောင့် (၄)နှစ် လွန်မြောက် (၅)နှစ်သို့ ရောက်ရှိခဲ့စဉ် ကျန်းမာရေးမှာ ထိခိုက်လာလေတော့၏။ ဒါယကာကြီးများက ဇလွန်ကျောင်းသို့ ပြန်ပင့်ကာ ဆေးဝါးကုသပေးရသည်အထိ ဖြစ်ရပါတော့၏။ စကားအပြောအဆိုကလည်း ယခင်နှစ်ကနှင့်မတူတော့ဘဲ တစ်မူထူးခြား ပြောဆိုလာတော့၏။

ဆရာတော်ကျန်းမာရေး ပြန်လည်ကောင်းမွန်လာသောအခါ စမ်းတောင်တောကျောင်းတွင် တရားအားမထုတ်တော့ဘဲ မဒေးရွာ တောကျောင်းတစ်ကျောင်းကို ရွာနှင့် ၂ ဖာလုံအကွာ ဆောက်လုပ်၍ ထိုကျောင်းမှာပင် ၃ ဝါမျှ သီတင်းသုံးနေတော်မူပြန်ပါပေသည်။



ထိုသို့ ထိုတောကျောင်းတွင် သီတင်းသုံးနေစဉ် မြင်းခြံမြို့မှ စွန်းလွန်း ဆရာတော် ဦးကဝိ၏ သတင်းကို ကြားသိရခြင်းဖြစ်ပေသည်။ ထိုသို့ ထိုမြင်းခြံ စွန်းလွန်းဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ ကထာကို ဖတ်ရှု၍ ထူးခြားပုံကို အောက်ပါအတိုင်း တွေ့ရှိရပါသည်။

## စွန်းလွန်းဆရာတော် ထေရုပ္ပတ္တိကို ဖတ်မိ၍

၁၉၆၄ မြန်မာပြည် မြင်းခြံစွန်းလွန်း ဆရာတော် ဦးကဝိ ပျံလွန်တော်မူခဲ့လေရာ ကြွင်းကျန်လျက်ရှိသော ဥတုဇရုပ်ကလပ်တော်မှာ မပုပ်မသိုးကြောင်း အရှင်မြတ်သည် ရဟန္တာဖြစ်ကြောင်း သတင်းရနံ့တို့ သင်းပျံ့ကာနေကြလေ၏။ ထိုအရှင်၏ထေရုပ္ပတ္တိ စာအုပ်တွေကလည်း သံတွဲမြို့နယ်အတွင်း ပျံ့နှံ့လျက်ရှိ၏။ ထိုထေရုပ္ပတ္တိစာအုပ်ကို ဆရာတော်ဘုရား ဖတ်ရှုရပြီးနောက် (၂) နှစ်ခန့်အကြာ သက်တော် (၆၀)ပြည့်နှစ် သိက္ခာတော် ဝါ(၄၀) အရတွင် သာယာကွင်းကျေးရွာ ဦးလှညွန့်စသော ဒါယကာကြီးများကို တပည့် ဒကာတို့ "ငါပျံလွန်တော်မူရင် မပုပ်မသိုးတော့ဘူး ဒါ့ကြောင့်မို့ ငါ့ရဲ့ ခန္ဓာကိုယ်ကို မီးမှာလဲ မရှို့ကြလေနှင့် မြေမှာလဲ မမြှုပ်နဲ့ ရေမှာလဲ မမျှောကြလေနှင့် အာရုံခြောက်ပါး တံခါးခြောက်ပေါက်ကို ရည်ရွယ်သောအားဖြင့် အပေါက်ခြောက်ပေါက်ပါရှိသောဂူကို ပြုလုပ်၍ ဥတုဇခန္ဓာအလောင်းကို ဂူထဲမှာထည့်ထားကြပါ"ဟု ရဲရင့်တည်ကြည်သော ဣန္ဒြေဖြင့် မိန့်တော်မူလေတော့၏ဟု ဖော်ပြခဲ့ပြီးဖြစ်ပါသည်။

ထိုနောက် ပြောင်းလဲထူးခြားမှုများကို ကျွမ်းပြူဆရာက အောက်ပါအတိုင်း မှတ်တမ်းတင်ခဲ့ပြန်ပါသည်။

ဆရာတော်ဘုရားသည် သာယာကွင်း ကျောင်းတွင် (၅)နှစ် နေ၍ ငါပျံလွန်တော်မူလျှင် မပုပ်မသိုးဘူး ဟူသော အမိန့်စကားရပ်ကို မိန့်ကြားပြီးနောက် ဆွမ်း သစ်သီး အစရှိသော လှူဖွယ်ဝတ္ထုအစုစု မှန်သမျှ တို့ကို လာရောက်လှူ ဒါန်းကြသော ဒကာ ဒကာမတို့အား အောက်ပါ ဆုတောင်းတစ်ပုဒ်ကို လိုက်ဆိုစေပြီးမှ ဝတ္ထုကို အလှူခံတော်မူလေသည်။

"ဣဒံ မေ ပုညံ အာသဝက္ခယံ ဝဟံ ဟောတု။

"ဣဒံ မေ ပုညံ နိဗ္ဗာနဿ ပစ္စယော ဟောတု။

ထိုဆုတောင်းကို ဆရာတော်ဘုရား နောက်ဆုံးပျံလွန်တော်မူသည့်နေ့အထိ လိုက်ဆိုစေခိုင်းသွားတော်မူလေသည်။

(ကျွမ်းကိုး၊ ယင်းကျွမ်း စာ ၁၂)

ဆရာတော်သည် သာယာကွင်း တောင်ပေါ်ကျောင်း၌ (၁၂)လ သီတင်းသုံးပြီးနောက် ဇလွန်ကျောင်းတွင် တပည့် အရှင် သုမင်္ဂလ ပျံလွန်တော်မူပြန်၍ မူလဇလွန်ကျောင်းသို့ ပြန်ကြွတော်မူခဲ့ရလေ၏။ ဇလွန်ကျောင်းတွင်လည်း တရားအားထုတ်ခြင်းကို ကြိုးစားလျက် သီတင်းသုံးနေတော်မူပါသည်။

ဆရာတော်ဘုရားသည် တရားဓမ္မဟောကြား ဆိုဆုံးမရာ၌ ဒါနတရားသည် သာမန်လောက်ကိုသာ ဟောတော်မူလေ့ရှိပြီး သီလပိုင်းတွင် ကိုယ်ကျင့်တရား ကောင်းမွန်စေရေးအတွက် အထူးဟောလေ့ရှိပါသည်ဟု သိရှိရပါသည်။

ဗုဒ္ဓရတနာ အစစ်အမှန် ဓမ္မရတနာ အစစ်အမှန် သံဃာရတနာ အစစ်အမှန်တွေကို ယုံယုံကြည်ကြည်နဲ့ အမြဲဆည်းကပ်ကိုးကွယ်နေကြရတဲ့ ဒကာ ဒကာမတွေဟာမှ အပါယ်ရောက်စေမယ့်



မကောင်းမှု ဒုစရိုက်တွေကို ရှောင်ကြဉ်ပြီး ကိုယ်ကျင့်တရားကောင်းမွန်ဖို့ သီလတရားတွေကို စောင့်ရှောက်ကြပါမှ အပါယ်ဘေးက လွတ်နိုင်ကြမယ်။ ကောင်းတဲ့ သုဂတိဘုံဘဝတွေကို ရောက်ကြမယ်ဟူ၍ ဟောလေ့ရှိပါသည်ဟု သိရပါသည်။

၁၉၈၄ ဆရာတော်ဘုရားကြီးသည် ဇလွန်ကျောင်း၌ (၉)နှစ်မြောက်၍ (၁၀)နှစ်ထဲအရောက် သက်တော် (၈၀) သိက္ခာတော် (၆၀)ထဲအရောက် ၁၃၄၆ ခု ဝါခေါင် လကွယ်နေ့တွင် ဥပုသ်သည် တပည့် ဒကာ ဒကာမတို့အနေဖြင့် သမိုင်းဝင် မှတ်တမ်းတင်ရလောက်သည့် ဩဝါဒစကား မိန့်ကြားတော်မူသည်ဟု သိရပါသည်။

"တပည့် ဒကာအပေါင်းတို့ ပူဇော်တယ် လှူဒါန်းတယ်ဆိုတာ အသက်ထင်ရှားရှိတုန်း အခါမှာ ပူဇော်ရတယ်၊ လှူဒါန်းရတယ်၊ သေပြီးမှ ကျွေးချင် မွေးချင်လို့ကတော့ မရဘူး အပိုပဲ၊ အေး ဒါ့ကြောင့် ငါအသက်ထင်ရှားရှိတုန်းအခါမှာ ပူဇော်ကြ လှူဒါန်းကြ ငါအသက်ရှစ်ဆယ်ပြည့်သွားပြီ။ သီတင်းကျွတ်ရင် စိတ်မချရတော့ဘူး ငါပျံလွန်ခဲ့လျှင် ငါ့ဥတုဇခန္ဓာ မပုပ်ဘူး မှန်ခေါင်းမှာထည့် ဂူလုပ်၊ ဂူတွင် အာရုံခြောက်ပါး ဖောက်ထားပြီး ထိုဂူထဲမှာသွင်းလိုက်ကြပါ"ဟု ဩဝါဒ စကားမိန့်ကြားတော်မူသည်ဟု သိရပါသည်။

( ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆ )

ဇလွန်မဒေးဆရာတော်၌ ဦးသုမင်္ဂလဟူသော တပည့်တစ်ဦးရှိ၏။ ထိုတပည့်သည် ၁၃၄၆ ခု သီတင်းကျွတ်လကွယ်နေ့ ဇလွန်ကျောင်း၌ ပျံလွန်တော်မူရာ သင်္ဂြိုဟ်မည့် ဈာပန အခမ်းအနားနေရာသို့ ထိုဆရာတော်ဦးသုမင်္ဂလ၏ ရုပ်ကလာပ်တော်ကို ပင့်ဆောင်ကြပါသည်။ ထိုအခါ ကျေးရွာ လူငယ်အသင်း မိန်းကလေးအသင်းများနှင့် ပူးပေါင်းကာ အလောင်းပိုက် ဖြဟ္မာရုပ်ကြီးတစ်ရုပ် ပြုလုပ်၍ ပြီးစီးသော ဓမ္မာရုံရှေ့တွင်ထားရှိ၏။

၁၉၇၄ ဟောမန္တရာသီဥတု၏ ပြာသိုလသည်ကား အအေးဒဏ်သည် ခိုက်ခိုက်တုန်အောင် ချမ်းအေးလှပေ၏ဟု ဆိုကြပါသည်။ ထိုနေ့ တစ်နေ့မနက် ၈ နာရီ အချိန်လောက်မှာ ဆရာတော်ဘုရားနေဆာလှုံရန် ကျောင်းရှေ့သို့ ကြွလာပြီး ထိုဗြဟ္မာရုပ်ကြီးကို တွေ့မြင်လျှင် ပြန်ကြွပြီး မကြာခင် မီးဖိုမှနေ စာရေးသူအားခေါ်၍သွားရာ ဓမ္မာရုံရှေ့မှာ ဘယ်လိုအရုပ်ကြီးလဲဟု မေးတော်မူ၏။

အလောင်းပိုက် ဗြဟ္မာရုပ်ကြီးဖြစ်ကြောင်း လျှောက်ထားရာ ဆရာတော်မှာ ပြုံးရုံလေး ပြုံးပြီး အောက်ပါအတိုင်း မိန့်တော်မူပါသည်။

ဗြဟ္မာဆိုတာ ဒီလိုတော့ မဟုတ်ကွယ့်။ သုဒ္ဓါဝါသ အနာဂါမ် ရဟန္တာ ဗြဟ္မာကြီးတွေဆိုရင် အသားအရေတွေက ရွှေလိုဝင်းဝါပြီး အင်မတန် လှလှချောချောကြီးတွေ အင်မတန်ကိုလဲ တင့်တယ်ကြတဲ့ပုဂ္ဂိုလ်ကြီးတွေကွယ် အခုနင်တို့ လုပ်ထားတဲ့ပုံနဲ့ကတော့ တခြားစီပဲဟု မိန့်တော်မူလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၇)

၁၉၈၄ ၁၃၄၆ ခု သီတင်းကျွတ်လဆန်း ၂ ရက်နေ့ နံနက် ၇ နာရီ အချိန်တွင် ဆရာတော်ဘုရားသည် အလုပ်အကျွေးပြုနေသည့် အသက် ၇၅ နှစ်အရွယ်ရှိ ဦးနီဦးအားခေါ်၍ အောက်ပါအတိုင်း ထူးထူးခြားခြား မိန့်တော်မူပါသည်။

"နီဦး ဒီနေ့မနက် သံဃာသုံးပါး ကြွလာမယ် ရွာထဲ ဆွမ်းသွား စီစဉ်ချေ" ဟု အမိန့်ရှိ၏။ ယခင်ကလည်း ဦးနီဦးမှာ ဆရာတော်အမိန့်ရှိသည့် အခါတိုင်း ဆွမ်းအတွက် စီစဉ်ရလေ့ရှိ၏။



ထို့ကြောင့် သံဃာသုံးပါး ဆွမ်းဘုဉ်းပေးရန်အတွက် ရွာထဲသွား ဆွမ်းစီစဉ်ရလေသည်။ နံနက် ၁၀ နာရီပင် ထိုးကာနီးနေလေပြီ။ အာဂန္တုသံဃာ သုံးပါးမှာကြွမလာသေးပါ။ ထိုအခါ ဆရာတော်ကြီးအား အလုပ်အကျွေးပြုနေသည့် ဆရာတော်ဦးကဝိနန္ဒသည် ဝေယျာဝစ္စကိုစီစဉ်ပြီး ဘုရားအား ဆွမ်းတော် ကပ်လှူ၍ ကြေးစည်ပင် ထိုးတော့သည်။ ဆရာတော်ကား ဆွမ်းစားကျောင်းဆောင်ပေါ်သို့ ကြွမလာပါ။

ဆရာတော်ကြီး ကြွမလာ၍ ဦးနိုဦးကပင် သွားပင့်သောအခါ "ဟော့ နိုဦး ဆွမ်းမစားနဲ့ဦးလို့ ကဝိနန္ဒကိုပြောထား" "ဆရာတော် ဒီလောက်ရှိလို့မှ မလာရင်ကြွလာမယ် မထင်တော့ဘူးဘုရား၊ ဆရာတော်ဆွမ်းဘုဉ်းပေးဖို့သာ ကြွပေတော့" ဟု ပင့်လျှောက်ပါ၏။ "ခဏလောက်စောင့် ကြွလာကြပြီ" ဟု မျက်ဝါးထင်ထင် မြင်နေသည့်အလား အခိုင်အမာ မိန့်ကြားလေသည်။

ထိုအတောအတွင်း ဇလွန်နှင့် ၃ မိုင်ကွာ တံခွန်တိုင် တောကျောင်းဆရာတော် မဲနယ်ကွင်း ကျောင်းသစ်ဆရာတော် စာရေးသူ အပါအဝင် ၃ ပါး လမ်းတွင် ကြန့်ကြာနေ၍ ဆွမ်းစားချိန်နီးမှ ဇလွန်ကျောင်းသို့ ရောက်ရှိပါသည်။

ထိုအခါမှ ဦးနိုဦးနှင့် ဆရာတော် ဦးကဝိနန္ဒတို့မှာ အံ့အားသင့်ရပါတော့သည်ဟူ၍ အရှင် ရေဝတက ရေးသားပူဇော် မှတ်တမ်းအပ်ပါသည်။ ဤသို့ ဖတ်ခဲ့ရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၆-၃၇)

၁၉၈၄ ၁၃၄၆ ခု ဝါခေါင်လကွယ်နေ့ ဩဝါဒ စကားကို မိန့်ကြားပြီးနောက် သီတင်းကျွတ် လာသောအခါ ဆရာတော်ဘုရားသည် ကထိန်ပွဲများကို ကြွရောက်အလှူခံနိုင်ပြီး ကျန်းမာစွာ သီတင်းသုံးလျက် နေတော်မူ၏။ တန်ဆောင်မုန်းလဆန်း ၂ ရက်နေ့ နံနက်ပိုင်းမှ ဝမ်းသွန်သောဝေဒနာ ဆိုက်ကပ်လာရာ ဒေါက်တာအမော် ဆရာဝန် အကျော် ခေါ်ယူကာ ကုသပေမယ့် ကုသရန်ပင် မရလိုက်တော့ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၈)

၁၉၈၄ ဇလွန်မဒေး ဆရာတော် ဦးသုဇာတသည် သက်တော် ( ၈၀ ) ဝါတော် ( ၆၀ ) အရောက် ၁၃၄၆ခု တန်ဆောင်မုန်းလဆန်း ၂ ရက်နေ့ ညနေ ၂ နာရီ ၄၅ မိနစ် (၁၉၈၄ ခု အောက်တိုဘာလ ၂၅ရက်)နေ့တွင် ပျံလွန်တော်မူခဲ့ပါသည်။

၎င်းနောက် မှန်ခေါင်းထဲတွင်ထည့်ထားရာ ၁၀ ရက်ကျော်သောအခါ ထူးခြားမှုများ တွေ့ရပြန်ပါ သည်ဟု သိရပါသည်။

စာရေးသူသည် ဆရာတော်ဘုရား ရုပ်ကလာပ်တော်ကို ဖူးတွေ့ခြင်း မရှိသည်မှာ ၁၀ ရက်ခန့်ရှိနေ၍ သွားကာ ဖူးမြော်ပါသည်။ လေလုံခေါင်းထဲတွင် အပူငွေ့ လှိုက်ပြီး ရက် ၃၀ ခန့် ကြာမြင့်နေပြီဖြစ်သောကြောင့် မှန်၏အောက်မျက်နှာပြင်မှာ ချွေးသီး ပေါက်သဖွယ် စွဲကပ်နေကာ ဆရာတော်ဘုရားမျက်နှာတစ်ခုလုံး ရွှဲကာစိုနေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂)

၎င်းနောက် ကြာကလပ်တင်ပွဲ ခြိမ့်ခြိမ့်သဲ ကျင်းပသည်ဟုဆိုပါသည်။ ထိုပွဲတော်သို့ သံဃာ တော်အရှင်မြတ် အပါး ၆၀ ကြွရောက်ကြောင်း လူပရိသတ် ၇၀၀၀ ခန့် ရှိကြောင်း သိရှိရပါသည်။ ဓာတ်တော် ကွန့်မြူးသဖြင့် စောင့်ကာ ဖူးကြရကြောင်း သိရှိရပါသည်။ သံတွဲမြို့ ဇလွန်ရွာ မောင်အုန်း၏ ကိုယ်တွေ့ဖြစ်ပါသည်။

၁၉၈၄ ပြာသိုလဆန်း ၂ ရက် တနင်္ဂနွေနေ့ ည ၁၀ နာရီ ၃၀ မိနစ် အချိန်တွင်



အပေါ့အပါးသွားရင်း ကျွန်တော်၏စိတ်တွင် ဆရာတော်ကြီးအား ဤသို့ပြုစုစောင့်ရှောက်နေသူတစ်ဦးဖြစ်သည့်အားလျော်စွာ ဓာတ်တော်ကို ဖူးတွေ့ရလျှင်ဖြင့် ဘယ်လောက်များ ကောင်းမှာလဲဟု စိတ်၌ အကြံဖြစ်မိပါသည်။

ကိစ္စပြီးမြောက်သောအခါ ဆရာတော်ဘုရား စံမြန်းတော်မူရာ မဏ္ဍပ်သို့ ပြန်လှည့်ကြည့်လိုက်ပါသည်။ ထိုအချိန်တွင် ကြာကလာပ်ပေါ်တွင် အလျား ၅ ပေ၊ အလုံး ၃ ပေခန့်ရှိသော အဖြူပျော့ရောင်၊ ၎င်းအရောင်ထဲတွင် ရှောက်သီးလုံးခန့်ရှိသော ထူးဆန်းသော အရောင်အဆင်းတို့ကို အနီးကပ် မြင်တွေ့ရပါသည်။ ထိုအခါ ကျွန်တော်က မဏ္ဍပ်အတွင်းရှိ ဦးတင်အေး၊ ဦးသန်းခင်၊ ဦးသိန်းမောင်၊ ဦးမောင်အုန်းရွှေ၊ ဦးကျော်နိုင်တို့အား ဓာတ်တော်တောက်နေပြီဟု အော်ပြောလိုက်ရာ သူတို့လည်း မဏ္ဍပ်အပြင်ဘက်သို့ ထွက်လာကြပြီး ကျွန်တော့်နည်းတူ ဝမ်းမြောက်ဝမ်းသာ ဖူးတွေ့လိုက်ရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၄၆)

၎င်းနောက် သံတွဲမြို့နယ်၊ ဇလွန်ရွာသား အေးဖေဆိုသူ၏ မှတ်တမ်းကိုလည်း အောက်ပါအတိုင်း ဖတ်ရှုရ၍ သိရှိရပါသည်။

ကျွန်တော်သည် ဇလွန်ဘုန်းတော်ကြီးကျောင်းနှင့် ကိုက် ၂၀၀ ခန့်အကွာတွင် နေထိုင်သော ဆရာတော်ဘုရားကြီး၏ တပည့် ဒကာတစ်ဦး ဖြစ်ပါသည်။

၁၉၈၄ ဆရာတော်ဘုရားကြီး ရုပ်ကလာပ်တော် ထာဝရကိန်းဝပ်စံမြန်းရန်အတွက် ပြတိုက်ကြီး အုတ်မြစ်ချသည့်နေ့မှာ ကျောင်းရှိသံဃာတော်များနှင့် ပန်းရံဆရာတို့အား ကောက်ညှင်းပေါင်း လှူဒါန်းနိုင်ရန်အတွက် ၁၃၄၆ ခု နတ်တော်လဆန်း ၈ ရက် သန်းခေါင်ကျော် ၃ နာရီ ၁၅ မိနစ်အချိန်ခန့်တွင် ကျွန်တော်၏ ဇနီးဖြစ်သူ ဒေါ်ထွေးသိသည် ကောက်ညှင်းပေါင်းရန် ထင်းအယူသွားစဉ် ဘုန်းတော်ကြီး ကျောင်းကုန်းမှ အုန်းသီးလုံးခန့် ပမာဏရှိသော အလုံးတစ်ခုအား ထူးဆန်းစွာတွေ့မြင်ရသဖြင့် ကျွန်တော့်အား အရေးတကြီးခေါ်ပြရာ ကျွန်တော်၏ တစ်သက်တာတွင် မမြင်စဖူး ထူးဆန်းသော အရောင်အဆင်းကို ပြောပြရန် မတတ်လောက်အောင် ဖူးမြင်ရသဖြင့် ကျွန်တော်တို့ ဇနီးမောင်နှံမှာ လက်အုပ်ချီကာ ချီကာဖြင့် မိနစ် ၂၀ ခန့် ဖူးတွေ့နေရပြီး ဝမ်းမြောက်ဝမ်းသာကြည်နူးနေကြစဉ် ၎င်းဓာတ်တော်သည် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် တည့်တည့်မှပင် တဖြည်းဖြည်း မှိန်မှိန်ကာ ပျောက်ကွယ်သွားခြင်းကို တိကျစွာ ဖူးတွေ့လိုက်ရပါကြောင်း တင်ပြလိုက်ပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၄၇ - ၄၉)

ဇလွန် မဒေးဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်မှာ မပုပ်မသိုး ထူးခြားစွာ ယနေ့တိုင် ဖူးမြော်ရပေသည်ဟု သိရှိရပါသည်။

ကျမ်းကိုး ။ ။ မသူကျော်သွား သိသူဖော်စား ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ပေါင်းချုပ်ကြီး၊ ဇလွန်မဒေး ဆရာတော် ဦးသုဇာတ (၁)အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၄၈၊ ၂၇-၂-၂၀၀၆ တွင် ပါခဲ့ပြီးဖြစ်ပါသည်။ ဇလွန်မဒေး ဆရာတော် ဦးသုဇာတ (၂) အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ် ၄၉၊ ၆-၃-၂၀၀၆ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေးသော မကွေးတိုင်းဒေသကြီး၊ ပွင့်ဖြူမြို့နယ်၊

# ဂူပြဲရွာ ဆရာတော်ဘုရားကြီး ဦးသုစိတ္တ

**အေဒီ ၁၉၀၄ – ၁၉၉၅ (၁၂၆၆ – ၁၃၅၇ )**





ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်မှာ ယခုအခါ ဝူဖြူရွာ၌ ယနေ့တိုင် ဖူးနိုင်သေးသော်လည်း ဆရာတော်ကြီး၏ ဇာတိမှာ ရွှေလှေကျေးရွာ ဖြစ်ပါသည်။

ထိုကျေးရွာမှာလည်း မကွေးတိုင်းဒေသကြီး ပွင့်ဖြူမြို့နယ်အတွင်းမှာပင် ရှိပါသည်။ ဆရာတော်ကြီးသည် သောကြာနေ့ဖွားဖြစ်၏။ ခန္ဓာဝန်ချတော်မူသောနေ့မှာလည်း သောကြာနေ့ပဲ ဖြစ်ပါသည်။

၁၉၀၅ အဖမှာ ဦးဘိုးမြင့် ဖြစ်၏။ အမိမှာ ဒေါ်ပိုက် ဖြစ်၏။ အေဒီ ၁၉၀၅ ခု၊ မတ်လ ၂၀ ရက်၊ (၁၂၆၆ ခုနှစ် တပေါင်းလပြည့်ကျော် ၁ ရက်) သောကြာနေ့တွင် ဖွားမြင်တော်မူ၏။ ငယ်မည်ကို မသိရပါ။

(မတ်လ ၂၀ ရက်မှာ တနင်္လာနေ့ဖြစ်ကြောင်း သိရှိရပါသည်။) (ကျွမ်းတိုး၊ ပညာ့အလင်းပြ၊ အင်္ဂလိပ် မြန်မာ နှစ်ထစ်ရာ ပြက္ခဒိန် ၁၂၂၅ - ၁၃၂၉ ပညာ့အလင်းပြ ပုံနှိပ်တိုက်၊ ၁၉၆၆ ခု၊ စာ ၂၄၈ ကို ကြည့်ပါ။)

မွေးချင်း ၇ ယောက် ရှိကြောင်း သိရပါသည်။ ညီအစ်ကို လေးယောက်ရှိ၏ဟု ဆိုပါသည်။ ထိုလေးယောက်စလုံးပင်လျှင် ရဟန်းဘောင်သို့ ဝင်ရောက်ခဲ့ကြကြောင်း သိရှိခဲ့ရပါသည်။

ဇာတိဖြစ်သော ရွှေလှေကျေးရွာတွင် တောရကျောင်းဆရာတော် ဦးအာစိဏ္ဏထံတွင် ကိုရင်ဝတ်ခဲ့ကြောင်း အကြမ်းဖျင်းအားဖြင့် သိရှိရပါသည်။ ကိုရင်ဘဝနှင့်ပင်လျှင် အခြေခံစာပေများ သင်ကြားခဲ့ကြောင်း သိရှိရပါသည်။

၁၉၂၅ အသက် ၂၀ အရွယ်သို့ ရောက်သောအခါ မန္တလေးမြို့ ရွှေရေးဆောင်ဆရာတော် ဦးကြည်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင်သို့ ရောက်ရှိခဲ့ကြောင်း သိရှိရပါသည်။ ဘွဲ့တော်မှာ ဦးသုစိတ္တဖြစ်၏။ ထိုနှစ်သည် ၁၉၂၅ ခုနှစ် ဖြစ်၏။

၁၉၃၅ ရဟန်းဘဝနှင့်ပင် စာပေများ ဆက်လက်ဆည်းပူးခဲ့ကြောင်း သိရှိရပါသည်။ မန္တလေးတွင် အေဒီ ၁၉၃၅ ခု (၁၂၉၆ ခုနှစ်) ရဟန်းဝါ ၈ ဝါအထိ သီတင်းသုံးခဲ့ကြောင်း၊ ၎င်းနောက် မန္တလေးမှ ပြည်မြို့သို့ ပြောင်းရွှေ့ခဲ့ကြောင်း သိရှိရပါသည်။ ပြည်မြို့သို့ ရောက်သောအခါ နိဗ္ဗာန်ကြီးကျောင်းတိုက်တွင် စာချဆရာတော်အဖြစ် သီတင်းသုံးနေထိုင်ခဲ့ကြောင်း သိရှိရပါသည်။

တစ်ဖက်က လည်း စာပေပို့ချ၏။ တစ်ဖက်ကလည်း ဝိပဿနာ ဓူရတရားများကို ကျင့်ကြံအားထုတ်ခဲ့ကြောင်းသိရပါသည်။ သို့နှင့် ပြည်မြို့တွင် ၄ ဝါ ကြာခဲ့ပေသည်။

၁၉၃၇ ၎င်းနောက် ပြည်မြို့မှ အလောင်းတော် ကဿပ ဖိုးဝင်းတောင်သို့ ကြွရောက်ပြီး ဝိပဿနာဓူရ သက်သက်ကိုသာ ကျင့်ကြံအားထုတ်ခဲ့ကြောင်း သိရှိရပါသည်။ ထိုအခါ ဝါတော် ၁၂ ဝါရှိပါသည်။ သက်တော်လည်း ၃၂ နှစ် ရှိပြီ ဖြစ်ပါသည်။ ထိုနှစ်သည် ၁၉၃၇ ခုနှစ် ဖြစ်၏။

တစ်ဖန် ဖိုးဝင်းတောင်မှာ ကြာရှည်မနေဘဲ ပြန်ကြွလာပြန်သည်။ စလင်းမြို့သို့ ရောက်သွားပြန်သည်။ စလင်းမြို့တွင် လက်ပံပင်ကျောင်းတိုက်၌ စာပေများ ပို့ချခဲ့သည်ဟု သိရှိရပါသည်။

အားလပ်သည့်အချိန်များတွင် ဦးဖိုးမြစ်ထံတွင် အင်းအိုင်ခလှဲ့ လက်ဖွဲ့ ဗေဒင်နက္ခတ် အင်္ဂရတ်ပညာများကိုလည်း လေ့လာဆည်းပူးခဲ့သေးသည်ဟု သိရှိရပါသည်။ ဦးဖိုးမြစ်မှာ အခြားမဟုတ်။ ဆရာတော်၏ ဖခမည်းတော်ဖြစ်ကြောင်း သိရှိရပါသည်။

၁၉၄၅ သို့နှင့် ဝါတော် ၂၀၊ သက်တော် ၄၀ သို့ ရောက်ရှိခဲ့ကြောင်း သိရှိရပါသည်။ ထိုနှစ်မှာပင်



ပွင့်ဖြူမြို့နယ် လယ်ကိုင်းမြို့ ဂူဖြူရွာကျောင်းတွင် ပဓာနနာယကအဖြစ် သီတင်းသုံးတော်မူခဲ့သည်မှာ ပျံလွန်တော်မူသည်အထိဖြစ်ပါသည်။ ထိုနှစ်သည် ၁၉၄၅ နှစ်ဖြစ်၏။

ဂူဖြူဆရာတော်ဘုရားကြီး၏ အကြောင်းအရာတို့ကို အကျယ်တဝင့်မသိရပါ။

ထိုစဉ်အခါက ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်သည် အနံ့မထွက်ကြောင်း မပုပ်ကြောင်း ကြားသိရသဖြင့် ရပ်ဝေးရပ်နီးမှ စုံစမ်းမေးမြန်းသူများ ပေါ်လာပါသည်။ ဘာဆေးမှလည်း မထိုးကြောင်း အနံ့အသက်လည်း မထွက်ကြောင်း၊ ဦးပဥ္ဇင်းကိုယ်တိုင် ရုပ်ကလာပ်တော်ကို ၅ ရက်တိတိ စောင့်ကြည့်ခဲ့ကြောင်း တပည့်ရင်းဖြစ်သူ ဦးပဥ္ဇင်း ဦးပညာသီဟက မိန့်ကြားခဲ့ပါသည်။

(ကျမ်းကိုး၊ ကျော်ဇောလင်း(မကွေး)၊ ဂမ္ဘီရ၊ ၁၉၉၆ ခု၊ အမှတ် ၁၁ ၊ စာ ၉၉)

ဆရာတော်ကြီးသည် မိမိပျံလွန်တော်မူမည့်အချိန်ကို အတိအကျ ကြိုတင်၍ မိန့်တော်မူခဲ့ကြောင်း သိရှိရပါသည်။ ထိုအချက်ကို မှန်မမှန် စုံစမ်းသောအခါ -

၁၉၉၅ မှန်ပါတယ်၊ ဆရာတော်ကြီးက (၈ - ၁၂ - ၉၅) သောကြာနေ့ မကွေးတိုင်း ဆေးရုံကြီး သံဃာဆောင်မှာ ည ၈ နာရီ ၁၅ မိနစ်အချိန်တွင် ပျံလွန်တော်မူခဲ့ပါတယ်။ ပျံလွန်တော်မမူခင် နေ့လယ် ၂ နာရီက ဦးပဥ္ဇင်းနဲ့ အနီးကပ်ပြုစုတဲ့ ဒကာတွေကိုခေါ်ပြီး ည ၈ နာရီ ၁၅ မိနစ်အချိန်မှာ ငါ့ကိစ္စတွေ အားလုံးပြီးစီးပြီ။

ဝိဇ္ဇာအတတ်နဲ့ ငါနေဦးမယ်ဆိုရင် အသက်နှစ်ပြန်အထိ နေနိုင်ပါသေးတယ်၊ (ဆရာတော်ကြီး၏ အသက် ၉၂ နှစ်၊ အသက်နှစ်ပြန် ၁၈၄ နှစ်ကို ရည်ရွယ်ပြောဆိုခြင်း ဖြစ်ပါသည်။)

ငါသေရင် ရင်လဲမခွဲကြနဲ့။ မီးလဲ မရှို့ကြနဲ့။ မြေလဲ မမြှုပ်ကြနဲ့။ မှန်ခေါင်းထဲထည့် မှန်ခေါင်းအပေါက်ဖောက်ပေးထားကြပါ။ ဈာပနကိစ္စ အချိန်ဆွဲမထားကြနဲ့၊ လုပ်စရာရှိတာ မြန်မြန်လုပ်ကြပါလို့ ဆရာတော်ကြီးက သေသေချာချာမှာကြားခဲ့ပါတယ်။

ဆရာတော်ကြီး မှာကြားခဲ့တဲ့အချိန်နဲ့ ပျံလွန်တော်မူတဲ့အချိန် ကွက်တိညီနေပါတယ်ဟူ၍ တပည့်ရင်းဖြစ်သူ ဦးပညာသီဟမှာ မိန့်တော်မူခဲ့ပါသည်၊

(ကျမ်းကိုး၊ ကျော်ဇောလင်း (မကွေး)၊ မပုပ်မသိုး အနံ့မထွက်သည့် ဂူဖြူဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်၊ ဂမ္ဘီရ၊ ၁၉၉၆ ၊ အမှတ် ၁၁ ၊ စာ ၉၉-၁၀၁ တွင် ကြည့်ပါ)

ပျံလွန်တော်မူပြီးနောက် ရုပ်ကလာပ်တော်ကို မကွေးတိုင်းဒေသကြီး ဆေးရုံကြီးတွင် မထားဘဲ ပွင့်ဖြူမြို့ နယ်၊ လယ်ကိုင်းမြို့၊ ဂူဖြူရွာအထိ ကားနှင့် ညတွင်းချင်း ပင့်ဆောင်ခဲ့ကြပါသည်။

လမ်းခရီးတစ်လျှောက်လုံးမှာ လမ်းကလည်း အလွန်ကြမ်းတမ်းလှ၏။ ချိုင့်ခွက်များကလည်း အလွန်ပေါများလှ၏ဟု သိရပါသည်။ သို့သော်လည်း ကြမ်းပြင်မှာ ကော်နဲ့ကပ်ထားသကဲ့သို့ ရုပ်ကလာပ်တော်မှာ အေးဆေးငြိမ်သက်စွာပင် ဖူးတွေ့ရကြောင်း ပြောဆိုကြပါသည်။

အနီးကပ်ပြုစုသူများ၏စကားအရ ဆရာတော်ကြီး၏ မိန့်မှာချက်တို့ကို ပြန်ပြောင်းပြောပြသောအခါ အချို့ကလည်း လက်မခံကြပါ။

၁၉၉၅ သို့နှစ် ထို ၁၉၉၅ ခု၊ ဒီဇင်ဘာလ ၁၀ ရက်နေ့ ညနေ ၄ နာရီအချိန်လောက်မှာပင်



ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို မှန်ခေါင်းထဲမှာ ထားရှိရန် ပင့်ဆောင်သွားကြပါသည်။ ထိုအချိန်မှာပင် မည်သည့်အရာနှင့်မျှ ထိခိုက်မှုမရှိဘဲ မှန်ခေါင်းကြီးသည် အလိုလိုပင်လျှင် ဖောင်းခနဲဟူသော မြည်သံနှင့်အတူ အလိုလို အက်ကွဲသွားခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉၉ - ၁၀၀)

ထိုအချိန်အခါမှာ ဘယ်ကရောက်လာမှန်းမသိသော လူစိမ်းတစ်ယောက် အသက် ၉၀ အရွယ်ခန့်ရှိပါလိမ့်မည်။ ထိုသူရောက်လာပြီးလျှင် ဆရာတော်ကြီးသည် ဝိဇ္ဇာနယ်မှ အရိယာနယ်သို့ ကူးပြောင်းသွားပြီဖြစ်ကြောင်း လက်ဖဝါး ခြေဖဝါးများကို ရွှေချပူဇော်ချင်ကြောင်း ပြောကြား၍ ရွှေချပူဇော်ခဲ့ပါသည်။

ရုပ်ကလာပ်တော်ကိုလည်း ဆရာတော်ကြီး၏ မှာကြားချက်အရ ဂူသွင်းပူဇော်ကြသည်။ မှန်ခေါင်း၏နံဘေးမှာ အပေါက်ဖောက်ထားကြသည်။ ရုပ်ကလာပ်တော်ကို ယနေ့တိုင် ဖူးမြော်နိုင်ပါသည်။ ပွင့်ဖြူမြို့နယ်၊ လယ်ကိုင်းမြို့၊ ဂူဖြူရွာတွင်ရှိပါ၏။

(ကျမ်းကိုး၊ ကျော်ဇောလင်း (မကွေး)၊ မပုပ်မသိုး အနံ့မထွက်သည့် ဂူဖြူဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်၊ ဝမ္မိရ ၁၉၉၆ ၊ အမှတ် ၁၀ ၊ စာ ၉၉-၁၀၁ တွင် အကျယ်ဖတ်ရှုနိုင်ပါသည်။)

မာတ်တော်များကို ယနေ့ယခုအခါ ဖူးမြော်နိုင်သော ရဟန္တာအရှင်မြတ်ကြီး

# မဟာစည်ဆရာတော် ဦးသောဘန

## ခေအဒီ ၁၉၀၄ – ၁၉၈၃ (၁၂၆၆ – ၁၃၄၄)





မဟာစည်ဆရာတော်ဘုရားကြီး၏ အရိုးတော်ခေတ်မှ မုန်ညင်းစေ့သဏ္ဍာန် ဓာတ်တော်များ ပွင့်ထွန်းဖြစ်ပေါ်ကြောင်းကို သိရှိရပါသည်။

(ကျမ်းကိုး။ ဖူးသစ်ဝေမဂ္ဂဇင်း ၁၉၉၃ ခု၊ ဇီဇင်ဘာလ၊ အမှတ် ၂ တွင် Asia Friend Int'l Ltd ၏ ကောင်းမှုကြောင့် သိရှိရပါသည်။)

မဟာစည် ဆရာတော်ဘုရားကြီး၏ ဓာတ်တော်များ ပွင့်ပေါ်သည်ကို ဖူးမြော်ရသည်မှာ အလွန့်အလွန် ဝမ်းမြောက်ဖွယ် ကြည်ညိုဖွယ် သတင်းထူးတစ်ခု ဖြစ်ပါသည်။ ဖတ်ကြည့်ပါ။

၁၉၈၂ ဆရာတော်ဘုရား ြး ၏ ရုပ်ကလာပ်တော်ကို ၁၃၄၄ ခု၊ ဝါခေါင်လဆန်း ၁ ရက်နေ့တွင် အဂ္ဂိရှာ ့နအဖြစ် မီးသဂြိုဟ်ခဲ့ရာ အရိုးတော်နှင့်ပြာများ ကြွင်းရစ်ခဲ့ပါသည်။ ထိုအရိုးခေတ်များကို အနယ်နယ်ရှိ သတိပဋ္ဌာန် ရိပ်သာအသီးသီးတွင် ခွဲဝေ၍ ပူဇော်ခဲ့ကြပါသည်။

ထိုအရိုးခေတ်များသည် မူလက ပကတိ အရိုးအဖြစ်ဖြင့်သာတည်ခဲ့ပါသည်။ သို့ရာတွင် အရိုးခေတ်များမှာ ထူးခြားစွာ ကွန့်မြူးသော ရောင်ခြည်တော်များကို ဖူးတွေ့ရသူရှိခဲ့ပါသည်။ ပုသိမ်မြို့၊ သဒ္ဓမ္မသီတဂူရိပ်သာ အဂ္ဂမဟာ ကမ္မဋ္ဌာနာစရိယ ဘဒ္ဒန္တ အာစိက္ခဏ ဆရာတော်ဘုရားကြီး ပူဇော်ထားသော အရိုးခေတ်မှ သေးငယ်သော မုန်ညင်းစေ့သဏ္ဍာန် ဓာတ်တော်များ ခပ်စောစောကပင် ဖြစ်ပွားခဲ့ပါသည်။ သို့သော် သတင်းကျယ်ပြန့်ရန် အချိန်မကျခဲ့ပါသဖြင့် သတင်းထုတ်ပြန် ကျေညာသည်ကို မသိရှိခဲ့ရပါ။

၁၉၉၃ ၎င်းနောက် ၁၉၉၃ ခုနှစ်၊ ဇူလိုင်လ ၁၅ ရက်နေ့ ၁၃၅၅ ခုနှစ်၊ ဝါဆိုလပြည့်နေ့တွင် စစ်ကိုင်းတိုင်းဒေသကြီး၊ ကန့်ဘလူမြို့၊ မဟာစည်ရိပ်သာတွင် ပူဇော်ထားသော အရိုးခေတ်များသည် ပူဇော်ထားရာဖြစ်သော ဖန်ပုလင်းထဲတွင်ပင်လျှင် မုန်ညင်းစေ့ခန့် ဓာတ်တော်များ ရာပေါင်းများစွာတန်းစီလျက် ဖြစ်ပေါ်ပွင့်ပွားခဲ့သည်ဖြစ်ရာ နာယကကြီး ဦးထွန်းစက ရန်ကုန်သို့ ပင့်ဆောင်ခဲ့သည်ဟု သိရှိရပါသည်။ ၎င်းအပြင် ဖြစ်တုန်းဖြစ်ဆဲဖြစ်ပေါ်ဆဲ ပွင့်ပေါ်ဆဲ ဓာတ်တော်များကိုလည်း ကြည်ညိုဖွယ် ဖူးတွေ့ခဲ့ရပါသည်။

ရန်ကုန်မြို့ မဟာစည်ရိပ်သာ ဩဝါဒစရိယ သဒ္ဓမ္မသီတဂူ ဆရာတော်ကြီး ရန်ကုန်မြို့ အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ သဒ္ဓမ္မရံသီ ဆရာတော်ဘုရားကြီးနှင့် ရွှေမင်းဝံသာသနာ့ရိပ်သာ ဆရာတော် ဦးသောဘနတို့နှင့် တပည့်ယောဂီများစွာတို့လည်း ဝမ်းမြောက် ကြည်ညိုစွာ ပူဇော်ကြကြောင်း သတင်းရရှိခဲ့ပါသည်။

သတင်းအရ ရန်ကုန်မြို့ မဟာစည်သာသာနာ့ရိပ်သာသို့ ခေတ္တရောက်ရှိနေသော မဟာစည် ယောဂီ ဦးထွန်းစထံမှ ဓာတ်တော်များကို ဖူးသစ်ဝေ စီးပွားရေးမဂ္ဂဇင်းက သွားရောက်၍ အသေးစိတ် လေ့လာကြည်ညိုခဲ့ပါသည်။ ဦးထွန်းစ၏ ခွင့်ပြုချက်အရ ပင့်ဆောင်ခွင့် ရရှိသည့်အပြင် အနီးကပ် ဓာတ်ပုံရိုက် ပူဇော်ခွင့်လည်း ရရှိခဲ့ပါသည်။

(ကျမ်းကိုး။ ထိုသတင်းကို ၁၉၉၃ ခု၊ ဒီဇင်ဘာလထုတ် အမှတ် ၂ ဖူးသစ်ဝေ မဂ္ဂဇင်းတွင် Asia Friend Int'l Ltd က ဂုဏ်ယူကာ ဖော်ပြခဲ့သဖြင့် ဝမ်းမြောက် ဝမ်းသာ ကြည်ညိုခဲ့ရပါသည်။ ထိုအချက်ကို ကြည်ညို နိုင်အောင် ထပ်ဆင့်ဖော်ပြခြင်း ဖြစ်ပါသည်)



## ဇာတိနှင့် ဖွားသက္ကရာဇ်

၁၉၀၄ ဆဋ္ဌသင်္ဂါယနာပုစ္ဆက, အဂ္ဂမဟာပဏ္ဍိတ မဟာစည် ဆရာတော်လောင်းလျာ သားရတနာကို ရွှေဘိုခရိုင်၊ ဆိပ်ခွန်ရွာ၌ အဘ ဦးကံတော် - အမိ ဒေါ်ရွှေအုပ်တို့မှ ၁၉၀၄ခု ဇူလိုင်လ ၂၉ရက် (သက္ကရာဇ် ၁၂၆၆ ခုနှစ်၊ ဒုတိယဝါဆို လပြည့်ကျော် ၃ ရက်) သောကြာနေ့တွင် ဖွားမြင်သည်။ ငယ်နာမည် မောင်သွင် ဖြစ်သည်။

အသက် ၆ နှစ်အရွယ်တွင် ဆိပ်ခွန်ရွာ ပျဉ်းမနားကျောင်း ဆရာတော် ဦးအာဒိစ္စအား ဥပဇ္ဈာယ်ပြု၍ ရှင်သောဘနဘွဲ့ဖြင့် ရှင်သာမဏေဘောင် ဝင်ရောက်ခဲ့၏။

၁၉၂၂ ၁၉၂၂ ခု၊ နိုဝင်ဘာလ ၂၆ ရက်၊ ရဟန်းတက်၍ ၄ ဝါ အရတွင် မဟာစည် ဆရာတော်လောင်းလျာသည် အစိုးရ ပထမပြန်စာမေးပွဲများကို သုံးဆင့်စလုံး ဆက်တိုက်အောင်မြင်ခဲ့သည်။

၁၉၂၄ အသက် ၁၂ နှစ်အရွယ်တွင် ရှင်သာမဏေဝတ်၍ သက်တော် (၂၀)တွင် ရဟန်းပြုသည်။

၁၉၄၁ ၁၉၄၁ ခုနှစ်တွင် အစိုးရဓမ္မာစရိယ စာမေးပွဲကို ဝင်ရောက်ဖြေဆိုရာ ဂုဏ်ထူးဖြင့် အောင်မြင်ခဲ့လေသည်။

၁၉၄၂ ပရိယတ္တိစာပေ နေ့ဝါ၊ ညဝါ ကျမ်းစာအရပ်ရပ်ကို သင်ယူတော်မူခဲ့ပြီး အေဒီ ၁၉၄၂ ခု (၁၃၀၃ ခုနှစ်) တွင် 'သာသနဓဇသိရီ ပဝရ ဓမ္မာစရိယ' ဘွဲ့တံဆိပ်တော်ကို ဆက်ကပ်ခံယူရရှိတော်မူသည်။ ငယ်ဆရာများနှင့်တကွ မန္တလေးမြို့ အနောက်ပြင် ခင်မကန်တိုက်၌ ကျော်စောသော ဆရာတော်များထံ ပရိယတ္တိ ကျမ်းဂန်များ သင်ယူဆည်းပူးတော်မူခြင်း၊ သထုံမင်းကွန်း ဇေတဝန် ဆရာတော်ဘုရားကြီးထံ ပဋိပတ်ကို နည်းခံကျင့်ကြံအားထုတ်ခြင်းတို့ဖြင့် ပရိယတ်၊ ပဋိပတ် စွယ်စုံ ထူးချွန်သည့် ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူခဲ့လေသည်။

မဟာစည်ဆရာတော်ဘုရားကြီးသည် သထုံ မင်းကွန်း ဇေတဝန် ဆရာတော်ထံတော်တွင် နည်းခံကျင့်ကြံ အားထုတ်ခဲ့ကြောင်း လေ့လာတွေ့ရှိရပါသည်။

သထုံ မူလမင်းကွန်း ဇေတဝန် ဆရာတော်ကြီးထံ နည်းနာခံ တပည့်များ စာရင်းတွင် ရဟန်းပုဂ္ဂိုလ်ထူး ၁၀ ပါး၊ လူပုဂ္ဂိုလ်ထူး ၄ ဦး ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ တပည့်အရင်းအချာ ရဟန်းများမှာ -

(၁) ဦးကေလာသ ဆရာတော်၊ ဆံတော်တွင်းကျောင်းတိုက် ပဲခူး၊
(၂) ဦးဝိသုဒ္ဓိဆရာတော်၊ ရန်ကုန်မင်းကွန်းဌာန၊
(၃) မဟာစည် ဆရာတော် ဦးသောဘန၊ ရန်ကုန် သာသနာ့ရိပ်သာ ဆရာတော်၊
(၄) ရွှေဂူဆရာတော် ဦးဝဏ္ဏ၊ သထုံ၊
(၅) တောင်ပုလုဆရာတော် ဦးနန္ဒိယ၊ မိတ္ထီလာ တောင်ပုလု ကမ္ဘာအေးစေတီဆရာတော်၊ ထိုဆရာတော်ကား အထက်မြန်မာပြည်တွင် ရဟန္တာအသွင် အလွန်ထင်ရှားသော ဆရာတော်ဖြစ်လေသည်၊
(၆) ဦးနရိန္ဒဆရာတော်၊ ခံတော ချောင်းဦးမြို့၊
(၇) ဦးပဏ္ဍိတဆရာတော်၊ ကမ်းရပ်တောရ မြစ်ကွေ့မြို့၊
(၈) ဦးဇောတိက ဆရာတော်၊ ကျိုးတော တောင်ငူ၊



(၉) ဦးသုန္ဒဆရာတော်၊ ရွှေပြေသာရိပ်သာ ပျော်ဘွယ်၊
(၁၀) ဦးပဏ္ဍိတ ဆရာတော်၊ မြို့ပေါက်ဝ မော်လမြိုင်ဟူ၍ ပါရှိပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ ဒုတိယအကြိမ်၊ ပုံနှိပ်ခြင်း စာမျက်နှာ ၃၃)

နံပါတ် (၃) ပါ မဟာစည်ဆရာတော် ဦးသောဘနမှာ ၂၀ ရာစု သာသနာခေတ်တွင် မြန်မာမဆန့် ကမ္ဘာအထိကျော်စောတော်မူသော ထေရဝါဒဂုဏ်ဆောင် မြန်မာပြည်သား ရဟန္တာအရှင်မြတ်ကြီးဖြစ်ပေသောကြောင့် ကျွန်ုပ်လည်း အလွန်စိတ်ဝင်စားစွာ ဖတ်ရှုပါသည်။

၁၉၃၁ အေဒီ ၁၉၃၁ ခု (၁၂၉၃ ခုနှစ်) က မော်လမြိုင်မြို့ တောင်ဝိုင်းကလေး တိုက်ကျောင်း၌ တိုက်ကျောင်း ဆရာတော်ကြီး၏ လက်ထောက်အဖြစ်ဖြင့် ပရိယတ္တိစာပေ ပို့ချနေသည့် ရဟန်း (၈) ဝါရ ဓမ္မာစရိယ ဦးသောဘနပင် ဖြစ်၏။

၎င်းဦးသောဘနသည် ပရိယတ္တိလုပ်ငန်းကို ကြိုးပမ်းဆောင်ရွက်နေရာမှ ပဋိပတ္တိလုပ်ငန်းကိုလည်း လက်တွေ့ ကျင့်သုံး အားထုတ်လိုသောကြောင့် မိမိနှင့် သမာဆန္ဒတူမျှသော ဦးတေဇဝန္တခေါ် သီတင်းသုံးဖော် ရဟန်းတစ်ပါးနှင့်အတူ သပိတ်တစ်လုံး သင်္ကန်းသုံးထည်မျှဖြင့် တရားကျင့်နည်းကို စုံစမ်းရှာဖွေရန် မိမိ၏နေမြေ မော်လမြိုင်မှ ထွက်လာခဲ့၏။

ဇင်းကျိုက်တောင်၊ ကေလာသ မြသပိတ်တောင်နှင့် ရွှေရောင်ပြတောင် ဘုန်းတော်ကြီး ဦးအုန်းခိုင်၏ ဌာနစသည်တို့၌ စုံစမ်းခဲ့ပြီးနောက် သထုံမြို့ မင်းကွန်း ဇေတဝန်ကျောင်းတော်သည် သတိပဋ္ဌာန်သုတ် ပါဠိတော်နည်းဖြင့် လက်တွေ့ တရားအားထုတ်ပုံကို ဟောပြနေကြောင်း ကြားသိရသဖြင့် မော်လမြိုင်မှ ခရီးထွက်ခဲ့ခြင်းဖြစ်ကြောင်း သိရပါသည်။ ထို့ကြောင့် မဟာစည် ဆရာတော်လောင်းလျာ ဦးသောဘနသည် မင်းကွန်းဆရာတော်ကြီးအကြောင်း သိပြီးဖြစ်ပုံရလေသည်။

ဤတွင် ကျွန်တော်ပြောလိုသောအချက်ကို ရောက်ပါပြီ။ ထိုအချက်ကား အခြားမဟုတ် ဘုန်းတော်ကြီး ဦးအုန်းခိုင် ဆိုသူကား အဘယ်နည်း ဟူသော အချက်ဖြစ်ပါသည်။ အထက်ပါစာသားအရဆိုလျှင် ဘုန်းတော်ကြီး ဦးအုန်းခိုင်သည် ဇင်းကျိုက်တောင်မှာလည်း နေဖူးပုံရ၏။ ကေလာသတောင်မှာလည်း နေဖူးပုံရ၏။ မြသပိတ်တောင်မှာ နေဖူးပုံရ၏။ ရွှေရောင်ပြတောင်မှာလည်း နေဖူးပုံရ၏။ ဤသို့ဆိုလျှင် ဘုန်းတော်ကြီး ဦးအုန်းခိုင်သည် တောစဉ် တောင်စဉ် လှည့်လည်လျက် တောကျင့်တောင်ကျင့် ကျင့်ကြံနေပုံရသော ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ် ဖြစ်ဟန်တူလေသည်။ သို့သော် တိတိကျကျ အသေးစိပ် မသိရပါ။ မူလမင်းကွန်းဇေတဝန် ဆရာတော်ဘုရားကြီး၏ အကြောင်းကို ဘုန်းတော်ကြီး ဦးအုန်းခိုင်ထံမှ ရဟန်း ၈ ဝါရ ဓမ္မာစရိယ ဦးသောဘနသည် သတင်းကောင်းရခဲ့သည်ဟု ယူဆစရာရှိပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၅)

ထို့နောက် ဦးသောဘနသည် ဤသို့ တွေးမိလေသည်။

ငါသည်လည်း သတိပဋ္ဌာနသုတ် ပါဠိ အဋ္ဌကထာ ဋီကာကို ငါတို့လည်း ကောင်းကောင်းလေ့လာထားပြီးပင်ဖြစ်၏။ သို့သော် မင်းကွန်း ဇေတဝန်ဆရာတော်ကြီးမှာ သာမန်ပုဂ္ဂိုလ်မဟုတ်ပေ။ ပိဋကတ် ပါဠိအဋ္ဌကထာ ဋီကာတို့၌ ကောင်းကောင်း တတ်ကျွမ်းသည့်ပြင် တရားကိုလည်း လက်တွေ့ကျင့်သုံး ထားပြီးဖြစ်ပေသည်။ တပည့်ရာပေါင်းများစွာတို့အားလည်း လက်တွေ့ညွှန်ပြ ဟောကြားနေသော ဆရာတော်ဖြစ်ပေသည်။ သို့ဖြစ်၍ ၎င်းမင်းကွန်း ဇေတဝန်ဆရာတော်ကြီးထံမှာ နည်းနိဿယခံယူ၍ အားထုတ်သင့်သည်ဟု စဉ်းစားကြံစည်ပြီးလျှင် ရွှေရောင်ပြ ဦးအုန်းခိုင်၏ ဌာနမှ သထုံသို့ ခြေလျင်လျှောက်၍ ၂ ရက်တိုင်တိုင်လာခဲ့၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၆)



ရွှေရောင်ပြ ဦးအုန်းခိုင်၏ ဌာနမှ ထွက်ခွာခဲ့ပြီးနောက် သထုံအထိ ခြေလျင် လျှောက်သွားသည်ဟု စာထဲတွင်ပါ,ပါ၏။ ၂ ရက် ကြာကြာလျှောက်ရ၏ဟု ဆိုပါသည်။

၁၉၃၂ ထို့ကြောင့် ၁၂၉၃ ခု၊ တပေါင်းလဆန်း ၅ ရက်၊ (ခရစ် ၁၉၃၂ခု မတ်လ ၁၁ ရက်) သောကြာနေ့တွင် မင်းကွန်းဆရာတော်ဘုရားကြီးထံသို့ ဆိုက်ရောက်ခဲ့ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၆)

ထို့နောက် ထိုနေ့မှာပင် ကမ္မဋ္ဌာန်းတောင်းသဖြင့် ဆရာတော်ဘုရားကြီးက ညဉ့်ဦးယာမ် (၇)နာရီလောက်မှာ ကမ္မဋ္ဌာန်းနည်းကိုပေးတော်မူကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၆)

ထိုသို့ ကမ္မဋ္ဌာန်းပေးနေသည်မှာ တစ်နာရီခန့်ကြာ၏။ နာယူနေသော ဦးသောဘနလည်း နှစ်နှစ်ခြိုက်ခြိုက် သဘောကျ၏ဟုဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၇၇)

ဘုန်းတော်ကြီး ဦးအုန်းခိုင်၏ ရဟန်းဘွဲ့တော်မှာ ဦးဣန္ဒာစရိယဖြစ်ပါ၏။ ပဲစားကိုယ်တော်ကြီးဟု အများခေါ်ကြပါ၏။ အရှင်ဦးဣန္ဒာစရိယ (ခေါ်) ပဲစားကိုယ်တော်ကြီးခေါ် ဘုန်းတော်ကြီး ဦးအုန်းခိုင်၏သားမှာ ဦးစံဖေဖြစ်၏။ ဦးစံဖေ၏သားမှာ ကျိုက်ထီးဆောင်း ဆရာတော်ဖြစ်၏။ ထို့ကြောင့် ဘုန်းတော်ကြီး ဦးအုန်းခိုင်သည် ကျိုက်ထီးဆောင်း ဆရာတော်၏ အဘိုးတော်လေသည်။ ကျိုက်ထီးဆောင်းဆရာတော်၏ သက်သတ်လွတ်ဘေးမဲ့ ကျင့်စဉ်သည် အဘိုး ဖြစ်သူ ဘုန်းတော်ကြီး ဦးအုန်းခိုင်မှ အစပြုခဲ့သည်ဟု ဆိုကြပါသည်။ အဆိုပါ ဘုန်းတော်ကြီး ဦးအုန်းခိုင်သည် ကျိုက်ထီးဆောင်းဆံတော်ရှင် ကုန်းတော်ပေါ်တွင် ရာသက်ပန်ဘာဝနာ ကမ္မဋ္ဌာန်း စီးဖြန်းနေထိုင်သွားခဲ့သည်ဟုသိရပါသည်။ ကုန်းတော်ပေါ်တွင် တောကျင့်ကမ္မဋ္ဌာန်းဆောင်၍ ထိုကုန်းတော်ပေါ်၌ပင် ရုပ်ခန္ဓာ စွန့်ခွါသည်အထိ ဧကစာရိဓူတင် ဆောက်တည်နေထိုင်သွားခဲ့သည် ဟု သိရပါသည်။ ထိုထက်ပို၍ မသိရပါ။ သိရှိသူများ သတင်းပို့ပေးကြပါ။ သို့မှသာ ဖြစ်ရပ်ဆန်းများနှင့် အတူ ပျောက်ဆုံးနေသော ဘုန်းတော်ကြီး ဦးအုန်းခိုင်အကြောင်း ပေါ်လွင်လာမည်ဖြစ်ပါသည်)

(ကျမ်းကိုး၊ မောင်ပန်းမွှေး အချစ်ဂျာနယ်)

မဟာစည်ဆရာတော်ဦးသောဘန မွေးဖွား သီတင်းသုံးတော်မူရာ ရွှေဘိုနယ်၊ ဆိပ်ခွန်ရွာ မဟာစည်ကျောင်းတိုက်တွင် အလျား ၈ ပေ၊ လုံးပတ် ၁၀ ပေကျော်ရှိ ကုက္ကိုသား စည်တော်ကြီးတစ်ခုကို အစွဲပြု၍ ဆိပ်ခွန်ရွာရှိ မူလကျောင်းတိုက် မဟာစည်ကျောင်းတိုက်ဟု ခေါ်ဝေါ်တွင်ခဲ့ကြသည်။ ကုက္ကိုသား စည်တော်ကြီးကို အကြောင်းပြု၍လည်း မဟာစည်ဟု ခေါ်တွင်ခဲ့ခြင်းဖြစ်သည်ဆိုကလည်း မမှားပေ။ ထိုဆိပ်ခွန်ရွာရှိ၊ မဟာစည်ကျောင်းကို အစွဲပြု၍ ဆရာတော်ကြီးအား မဟာစည်ဆရာတော်ဟု ခေါ်တွင်သမုတ်ခဲ့ခြင်းဖြစ်သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ဂန္ထဝင်ကျော်၊ ရဟန်းတော်များ၊ ၂၀၀၀ ပြည့်နှစ်၊ ဇန်နဝါရီလ၊ပထမအကြိမ်၊ စာ ၂၈၂ - ၂၈၃)

၁၉၄၉ ထိုကျောင်းတိုက်၌ သီတင်းသုံး၍ တရားဟော တရားပြသော အရှင်ဦးသောဘနကိုလည်း မဟာစည်ဆရာတော်ဟု ခေါ်ကြသည်။ ၎င်းဆိပ်ခွန်ကျောင်းတော်မှာ (နောင်အခါတွင် ဆဋ္ဌသင်္ဂါယနာ ပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ ကမ္ဘာ့သာသနာပြု မဟာစည်ဆရာတော်ဘုရားကြီးဟု ကျော်ကြားလာမည့်) ဘဒ္ဒန္တသောဘန မဟာစည်ဆရာတော်သည် ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ချုပ်မှ လူကြီးမင်းများ၏ ပင့်ဆောင်ချက်အရ သက္ကရာဇ်



၁၃၁၁ ခုနှစ်၌ ပထမဆုံး ကြွရောက်တရားဟော တရားပြရာ ဌာနဖြစ်၍ မဟာစည် ဟူသောအမည်ကို ရလေသည်။

(ကျမ်းကိုး။ အရှင်ဇဋိလ၊ ဓမ္မာစရိယ၊ ပါဠိပါရဂူ၊ မဟာစည်နာယက ပြည်တွင်းပြည်ပ မဟာစည်သာသနာ့ ရိပ်သာအဖြာဖြာ၊ ပထမအကြိမ်၊ ၁၉၉၂ ခု၊ ဒီဇင်ဘာလ စာ ၂)

ဆရာတော် ဦးသောဘနသည် သိက္ခာတော် (၂၅) ဝါရ အထိ ဆိပ်ခွန်ရွာ မဟာစည်ကျောင်းနှင့် မော်လမြိုင် တောင်ဝိုင်းကလေးတိုက်ကျောင်းတို့တွင် အခါအားလျော်စွာ သီတင်းသုံး၍ ပရိယတ္တိ ပဋိပတ္တိ သင်ကြားပို့ချ နည်းနာ ညွှန်ပြတော်မူခဲ့သည်။

ဆိပ်ခွန်ရွာ ဇာတိဖြစ်၍ မော်လမြိုင် တောင်ဝိုင်းကလေးကျောင်းတိုက်၌ စာချဘုန်းကြီးလုပ်နေသော မဟာစည်ဆရာတော်သည် မိမိအားထုတ် ရရှိထားသောတရားကို ဆွေမျိုးမိတ်သင်္ဂဟများအား သိရှိနားလည်စေလိုသော စိတ်ဆန္ဒ ပြင်းပြလှသဖြင့် ဇာတိ ဆိပ်ခွန်ရွာသို့ပြန်ကြွ၍ ဆွေမျိုး မိတ်သင်္ဂဟများထဲမှ ပရိယတ်အခြေခံရှိသည့် ဆရာကြုံ၊ ဆရာကြွယ်၊ ဦးဘိုးဒန်အစရှိသော ပုဂ္ဂိုလ်များအား မိမိတို့ကိုယ်တိုင် အားထုတ်ခဲ့သော သတိပဋ္ဌာန် ဝိပဿနာတရားကို ကြိုးကြိုပ်ပြသခဲ့လေသည်။ ၎င်းနောက် ဆရာကြုံ၊ ဆရာကြွယ်တို့ကို ကမ္မဋ္ဌာနာစရိယ ဓမ္မကထိကများအဖြစ် သင်ကြားပေးပြီး ပဋိပတ္တိ သာသနာ တိုးတက်ရေးကို ဆောင်ရွက်တော်မူကာ ရိပ်သာတစ်ခု ဖွင့်လှစ်ခဲ့လေသည်။

ရိပ်သာစတင် တည်ထောင်ခဲ့သော နှစ်။ ၁၃၀၀ ပြည့်နှစ်၊ ကဆုန်လ။

ရိပ်သာ စတင်တည်ထောင်ခဲ့သူများ။ မဟာစည် ဆရာတော်ဘုရားကြီး၊ ဦးဘိုးခြုံ၊ ဆရာကြုံ၊ ဦးထွန်းအေးတို့ ဖြစ်ကြပါသည်။

(ကျမ်းကိုး၊ အရှင်ဇဋိလ၊ ဓမ္မာစရိယ၊ ပါဠိပါရဂူ၊ မဟာစည်နာယက ပြည်တွင်းပြည်ပ မဟာစည်သာသနာ့ ရိပ်သာအဖြာဖြာ၊ ပထမအကြိမ်၊ ၁၉၉၂ ခု၊ ဒီဇင်ဘာလ စာ ၂၉၇ - ၂၉၈)

၁၉၄၄ အေဒီ ၁၉၄၄ ခု၊ (၁၃၀၅ ခုနှစ်)တွင် မဟာစည်ဆရာတော် စီရင်ရေးသားတော်မူသော ဝိပဿနာရှုနည်း ကျမ်းကြီးနှစ်တွဲမှာ ကျော်စောထင်ရှား လှပေသည်။

၁၉၄၇ ဝန်ကြီးချုပ်ဟောင်း ဦးနုသည် ကေလာသတောင်မှာ ဥပုသ်ဆောင်ဝင်၍ အပြန် ၁၃၀၉ ခု၊ နတ်တော်လဆန်း ၁ ရက်နေ့တွင် ဗုဒ္ဓသာသနာတော်ကို ချီးမြှောက်နိုင်သော ဂုဏ်သိက္ခာနှင့် ပြည့်စုံသော လူကြီးမင်းများကို ဖိတ်ခေါ် ဆွေးနွေး၍ ဗုဒ္ဓသာသနာ့နုဂ္ဂဟအဖွဲ့ကြီးကို ဖွဲ့စည်းတည်ထောင်ခဲ့ပါသည်။

ထိုအဖွဲ့တွင် သူဌေးကြီး ဆာဦးသွင်၊ ဥက္ကဋ္ဌ၊ မြန်မာ့အလင်း ဦးတင် ဒုဥက္ကဋ္ဌ၊ အမြတ်တော်မင်းကြီး ဦးစံဖေ အကျိုးတော်ဆောင်၊ ငွေစာရင်းမင်းကြီး ဦးဘခင် စာရင်းစစ်၊ ဟသ်ာတသူဌေး ဦးမြအမှုဆောင်၊ စက်သူဌေး ဦးသာထက် အမှုဆောင်၊ ကုန်သည်ကြီး ဦးတင်ပွားအမှုဆောင်တို့ဖြစ်ကြသည်။

(ကျမ်းကိုး။ အရှင်ဇဋိလ၊ ဓမ္မာစရိယ၊ ပါဠိပါရဂူ၊ မဟာစည်နာယက ပြည်တွင်းပြည်ပ မဟာစည်သာသနာ့ ရိပ်သာအဖြာဖြာ၊ ပထမအကြိမ်၊ ၁၉၉၂ ခု၊ ဒီဇင်ဘာလ စာ ၃)

၁၉၄၉ ၁၃၁၁ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် (၆) ရက်နေ့ (၁၀-၁၁-၁၉၄၉) တွင် ရန်ကုန်မြို့ ဗုဒ္ဓသာသနာနုဂ္ဂဟ အဖွဲ့ကြီး၏ ပင့်ဆောင် ကိုးကွယ်မှုဖြင့် ရန်ကုန်မြို့ သာသနာ့ရိပ်သာသို့ ကြွရောက်တော်မူခဲ့သည်။

၁၃၁၁ ခုနှစ် တန်ဆောင်မုန်းလပြည့်နေ့တွင် ဦးနုကိုယ်တိုင် ရှိသေစွာ သွားရောက် လျှောက်ထား၍ ရွှေဘိုနယ်ဆိပ်ခွန်ရွာ ကမ္မဋ္ဌာနာစရိယအကျော် မဟာစည်ဆရာတော်ကို ရှေ့ဖော်ပြပါ သာသနာ့ရိပ်သာ မင်္ဂလာစံကျောင်းသို့ လေကြောင်းမှ



ပင့်ဆောင်ပြီးလျှင် ပဋိပတ္တိသာသနာတော်ကို အစွမ်းရှိသမျှ ပြုစုတော်မူပါရန် တောင်းပန်စကား လျှောက်ထားကြ၍ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ကြီးကပင့်၍ တာဝန်ယူဆောင်ရွက်လျက် အဘက်ဘက်မှ လိုလေသေးမရှိအောင် ထောက်ပံ့လှူဒါန်းခဲ့ကြပါသည်။

(ကျမ်းကိုး၊ အရှင်ဇဋိလ၊ ဓမ္မာစရိယ၊ ပါဠိပါရဂူ၊ မဟာစည်နာယက ပြည်တွင်းပြည်ပ မဟာစည်သာသနာ့ ရိပ်သာအဖြာဖြာ၊ ပထမအကြိမ်၊ ၁၉၉၂ ခု၊ ဒီဇင်ဘာလ စာ ၆ )

၁၉၄၉ ၁၃၁၁ ခုနှစ် နတ်တော်လပြည့်နေ့ (၄-၁-၄၉) မှစ၍ ယောဂီများအား ဝိပဿနာတရား ဟောကြား ပြသတော်မူခဲ့သည်။ ရိပ်သာ၏ အမည်သည်လည်း မဟာစည်သာသနာ့ရိပ်သာဟု တွင်ခဲ့လေသည်။

မြန်မာနိုင်ငံသို့ ဂျပန်များ ဝင်ရောက်လုဆဲဆဲအချိန်တွင် မဟာစည်ဆရာတော်သည် နေရပ်ဇာတိဖြစ်သော ဆိပ်ခွန်ရွာသို့ ပြန်ကြွသွားခဲ့၏။ ၁၉၄၉ ခု၊ နိုဝင်ဘာလတွင် ထိုစဉ်က ဝန်ကြီးချုပ်ဟောင်း ဦးနု၏ ပင့်လျှောက်ချက်အရ နောက်ပါ တပည့်ကြီးနှစ်ပါးနှင့်အတူ ရန်ကုန်မြို့ သာသနာရိပ်သာသို့ ကြွရောက်ခဲ့သည်။

(ကျမ်းကိုး၊ သင့်ဘဝ ဦးရဲလွင်၊ စာ ၇၀)

၁၉၄၉ ၁၉၄၉ ခု၊ ဒီဇင်ဘာလ ၄ ရက်နေ့တွင် ယောဂီ ၂၅ ဦးအား မဟာစည်ဆရာတော်ကိုယ်တိုင် ပထမဆုံး ဝိပဿနာကမ္မဋ္ဌာန်းကို ပြသခဲ့သည်။

(ကျမ်းကိုး၊ သင့်ဘဝ ဦးရဲလွင်၊ စာ ၇၀)

၁၉၅၂ ၁၉၅၂ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ကို ဆက်ကပ်ခဲ့လေသည်။

၁၉၅၄ ၁၉၅၄ ခု၊ မေလ ၁၇ ရက်နေ့တွင် အခမ်းအနားဖြင့် ဖွင့်လှစ်ခဲ့သော သမိုင်းတွင်ရစ်မည့် ဆဋ္ဌသင်္ဂါယနာ တင်ပွဲ၌ မဟာစည်ဆရာတော်သည် ပုစ္ဆကဆရာတော်အဖြစ် ဆောင်ရွက်ခဲ့၏။

၁၉၅၇ ၁၉၅၇ ခုနှစ်တွင် မဟာစည်ဆရာတော်အား ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာနိဒါန်းကို ပါဠိဘာသာဖြင့် ရေးသားရန် တာဝန်ပေးအပ်၏။ ဤခက်ခဲသောအလုပ်ကို ၁၉၆၀ ပြည့်နှစ်တွင် အပြီးသတ်ခဲ့၏။

(ကျမ်းကိုး၊ သင့်ဘဝ ဦးရဲလွင်၊ စာ ၇၁)

၁၉၅၈ ဆဋ္ဌသင်္ဂါယနာတင်ပွဲတွင် ဆဋ္ဌသင်္ဂီတိပုစ္ဆက တာဝန်ကို ဆောင်ရွက်တော်မူသည်။ ၎င်းအပြင် ဆဋ္ဌသင်္ဂါယနာ ဩဿာနသောဓက၊ ဆဋ္ဌသင်္ဂါယနာ ဝန်ဆောင်အဖွဲ့ နိုင်ငံတော်ဩဝါဒစရိယစသည့် သာသနာ့ တာဝန်အရပ်ရပ်ကိုလည်း စွမ်းစွမ်းတမံ ကြိုးပမ်းဆောင်ရွက်တော်မူခဲ့လေသည်။

ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားစဉ် မြန်မာနိုင်ငံအတွင်း မဟာစည်ဩဝါဒခံ ရိပ်သာခွဲပေါင်း (၃၀၀)ကျော် တည်ရှိခဲ့ပြီး ကမ္ဘာအရပ်ရပ်တွင်လည်း သာသနာပြု ရိပ်သာခွဲများကို တည်ထောင်ပေးတော်မူခဲ့သည်။ ဆရာတော်ဘုရားကြီး ပြသတော်မူသော ဝိပဿနာ တရားပွားများ ကျင့်ကြံအားထုတ်ပြီးသူ ရဟန်း၊ ရှင်၊ လူ၊ ယောဂီ ဦးရေ (၇၀၀၀၀၀)ကျော် ရှိခဲ့လေသည်။

ဆရာတော်ဘုရားကြီးသည် အိန္ဒိယ၊ သီရိလင်္ကာ၊ နီပေါ၊ စင်ကာပူ၊ မလေးရှား၊ ထိုင်း၊ ဗီယက်နမ်၊ ကမ္ဘောဒီးယား၊ လာအို၊ အင်ဒိုနီးရှား၊ ဂျပန် စသော အရှေ့တိုင်းနိုင်ငံများနှင့် ဥရောပ၊ အင်္ဂလန်၊ အမေရိကစသော အနောက်နိုင်ငံများ အပါအဝင် ကမ္ဘာအရပ်ရပ်မှ ပင့်ဖိတ်လျှောက်ထားချက်များအရ ကြွရောက်တော်မူပြီးလျှင် ထေရဝါဒ ဗုဒ္ဓသာသနာတော် စည်ပင်ပြန့်ပွားထွန်းကားရေးကို ဆောင်ရွက်တော်မူခဲ့လေသည်။

၁၉၈၂ ဆရာတော်ဘုရားကြီးသည် သက်တော်(၇၈) သိက္ခာတော်(၅၈)ဝါ ရရှိရာ



၁၃၄၄ ခုနှစ် ဒုတိယဝါဆို လပြည့်ကျော် (၁၀)ရက်နေ့ (၁၄-၈-၁၉၈၂)တွင် မဟာစည်သာသနာ့ရိပ်သာ စံကျောင်းတော်၌ ဘဝဇာတ်သိမ်း ချုပ်ငြိမ်းတော်မူခဲ့ပါသည်။

## ဆရာတော်ဘုရားကြီးအား ဆက်ကပ်ခဲ့သော ဘွဲ့တံဆိပ်တော်များနှင့် ဘွဲ့တံဆိပ်များ

| | | |
|---|---|---|
| အေဒီ ၁၉၄၆၊ | ၁၃၀၈ | သာသနဓဇ သီရိပဝရ ဓမ္မာစရိယ |
| အေဒီ ၁၉၅၄ | ၁၃၁၅ | အဂ္ဂမဟာပဏ္ဍိတ |
| အေဒီ ၁၉၅၆ | ၁၃၁၈ | ဆဋ္ဌသင်္ဂီတိ ဓမ္မပုစ္ဆက |
| အေဒီ ၁၉၅၆ | ၁၃၁၈ | ဆဋ္ဌသင်္ဂီတိ ဩဝါဒါစရိယ - သံဃနာယက |
| အေဒီ ၁၉၅၆ | ၁၃၁၈ | ဆဋ္ဌသင်္ဂီတိ ဘာရနိတ္ထာရက |
| အေဒီ ၁၉၅၆ | ၁၃၁၈ | ဆဋ္ဌသင်္ဂီတိ ဩသာနသောဓေယျပတ္တပါဠက |
| အေဒီ ၁၉၅၆ | ၁၃၁၈ | ဆဋ္ဌသင်္ဂီတိ မရမ္မိကတိပိဋကပဋိဝိသောဓက |
| အေဒီ ၁၉၅၆ | ၁၃၁၈ | ဆဋ္ဌသင်္ဂီတိ ကာရက |
| အေဒီ ၁၉၆၂ | ၁၃၂၃ | ဋီကာသင်္ဂီတိ ကာရက |

## မဟာစည် ဗုဒ္ဓသာသနာ့နုဂ္ဂဟအဖွဲ့ချုပ်

ကိုလိုနီနိုင်ငံအဖြစ် နှစ်ပေါင်းများစွာ အုပ်ချုပ်ခဲ့ပြီး စစ်ကြီးဘေးဒဏ်များကို အကြိမ်ကြိမ်ခံခဲ့ရပြီးနောက် မြန်မာနိုင်ငံ လွတ်လပ်ရေးရဖို့ သေချာနေသော အခြေအနေမှာ လောကီရေး လောကုတ္တရာရေး နှစ်ဖက်စလုံးကျဆုံး ပြိုပျက်လျက်ရှိနေပါသည်။

၁၉၄၇ ထိုအချိန်တွင် လွတ်လပ်ရေးရပြီးနောက် တိုင်းပြည်ကို ပြန်လည်ထူထောင်ရာ၌ လောကီရေးတစ်ခုတည်းကို ထူထောင်ပေးရုံဖြင့် တိုးတက်အောင်မြင်မည်မဟုတ် လောကုတ္တရာသာသနာရေးဘက်ကိုလည်း ပြန်လည်ထူထောင်ပေးမှသာ နိုင်ငံတော်အေးချမ်းသာယာ၍ စည်ပင်ဝပြောတိုးတက်မည်ဟု နိုင်ငံတော် ခေါင်းဆောင်ကြီးများ ဘာသာရေးဦးဆောင်သူများက ယုံကြည်ကြသဖြင့် (၁၃-၁၁-၁၉၄၇) ရက်နေ့တွင် အဖွဲ့ဝင် (၁၂)ဦးပါသော ဗုဒ္ဓသာသနာ့နုဂ္ဂဟအဖွဲ့ကြီးကို တည်ထောင်ခဲ့ကြပါသည်။

## ပရိယတ္တိသာသနာ

၁၉၄၈ ဤသာသနာ့ရိပ်သာကို ဥက္ကဋ္ဌကြီးဆာဦးသွင် လှူဒါန်းသော ၅. ၄၈ ဧကရှိ မြံမြေကြီးပေါ်တွင် ၁၄-၁၁-၄၈ နေ့တွင် စတင်ဖွင့်လှစ်၍ 'သာသနာ့ရိပ်သာ'ဟု အမည်စတင် ပေါ်ပေါက်လာပါသည်။

၁၉၄၉ သာသနာတော်သုံးရပ်တွင် အခြေခံအုတ်မြစ်ဖြစ်သော ပရိယတ္တိ သာသနာတော်ကို အဖွဲ့ကြီးအနေဖြင့် တိပိဋကဓရ ရွေးချယ်ရေးစီမံချက်ချမှတ်၍ ပထမအကြိမ်ရွေးချယ်ပွဲကြီးကို ဤရိပ်သာကြီး၌ အေဒီ ၁၉၄၉ ခု၊ ဖေဖော်ဝါရီ ၃ ရက်၊ ကြာသပတေးနေ့ (၁၃၁၀ ခု တပို့တွဲလဆန်း ၆ ရက်နေ့)တွင် ကျင်းပခဲ့ပါသည်။ (၄၆) ကြိမ် မြောက်အထိ တိပိဋကဓရ ရွေးချယ်ပွဲကြီးကို ဤရိပ်သာ၌ ကျင်းပခဲ့ပြီး (၄၇) ကြိမ်မြောက် ရွေးချယ်ပွဲမှ စ၍ သီရိမင်္ဂလာ ကမ္ဘာအေးကုန်းမြေသို့ ရွှေ့ပြောင်းကျင်းပခဲ့ပါသည်။



## ပဋိပတ္တိသာသနာပြုခြင်း

အဖွဲ့ကြီးသည် မူလရည်ရွယ်ချက်အတိုင်း ပရိယတ္တိသာသနာတော်ကြီးကို အမြင့်ဆုံး ချီးမြှောက်နေချိန်မှာပင် ပဋိပတ္တိ သာသနာတော်ကြီး တိုးတက်ပြန့်ပွားရေးကိုလည်း အလေးပေးဆောင်ရွက်ခဲ့သည်ကို တွေ့ရ၏။

တိပိဋကဓရ ရွေးချယ်ပွဲကြီးကို ပထမအကြိမ်ကျင်းပပြီးချိန်တွင် ပဋိပတ္တိ သာသနာတော်အတွက် ကမ္မဋ္ဌာန်းကျောင်းအဆောက်အအုံအချို့ကို ဆောက်လုပ်ပြီး သော်ငြားလည်း ကမ္မဋ္ဌာန်းနည်းပြ ဆရာတော်ကို ရှာမရသေးသောကြောင့် ပဋိပတ္တိ ကမ္မဋ္ဌာန်းဌာန တိုးချဲ့မဖွင့်လှစ်နိုင်ခဲ့သေးပေ။

အဖွဲ့ကြီးတည်ထောင်ပြီး တစ်နှစ်ပြည့်မြောက် (၂)နှစ်အရောက်တွင် ဥက္ကဋ္ဌကြီးဆာဦးသွင် စစ်ကိုင်းသို့ သွားရောက်စဉ် အဖွဲ့ကသတ်မှတ်ထားသည့် အင်္ဂါရပ်များနှင့် ညီညွတ်သည့် ကမ္မဋ္ဌာနာစရိယ ပုဂ္ဂိုလ်ထူးတစ်ပါးကို တွေ့ခဲ့ရသည်။

ကိုယ်တိုင်ပင် ဝိပဿနာ အလုပ်ပေးကျင့်စဉ်တရားကိုနာခဲ့ရ၍ အားရ နှစ်သက်သဘောကျခဲ့၏။ ရန်ကုန်သို့ ပြန်ရောက်ရောက်ခြင်းပင် ဆရာတော်၏ သတင်းကို ဝန်ကြီးချုပ်အားပြောပြ၍ ဆရာတော်ကို ဝန်ကြီးချုပ်ကိုယ်တိုင် သွားရောက် ဖူးတွေ့ပြီး ရန်ကုန်သို့ ပင့်ပေးရန် ပြောကြား၏။ ဝန်ကြီးချုပ်ဟောင်း ဦးနုသည် အဖွဲ့၏ တာဝန်ပေးချက်အရ ဆရာတော်ဘုရားကြီးအား ကိုယ်တိုင်သွားရောက်ဖူးတွေ့ ပြီး ပဋိပတ္တိသာသနာတော်ကြီး အစွမ်းကုန်ချီးမြှောက်ရန် အဖွဲ့၏ ရည်ရွယ်ချက်ကို လျှောက်ထား၍ ရန်ကုန်သာသနာ့ရိပ်သာသို့ ကြွရောက်သီတင်းသုံးရန် ပင့်ဆောင်ခဲ့ပါ သည်။ ထို့ကြောင့် -

၁၉၄၉ အေဒီ ၁၉၄၉ ခု၊ နိုဝင်ဘာလ ၄ ရက်၊ သောကြာနေ့ (၁၃၁၁ ခုနှစ် တန်ဆောင်မုန်းလပြည့်နေ့)တွင် ဆရာတော်ဘုရားကြီး ကြွရောက်တော်မူလာခဲ့ပြီး ကမ္မဋ္ဌာန်းပြသခဲ့ပါသည်။

ယခုအခါ မြန်မာနိုင်ငံတွင်း၌ ရိပ်သာခွဲပေါင်း (၄၀၀) ကျော်နှင့် ပြည်ပနိုင်ငံ များတွင်လည်း ဆရာတော်ဘုရားကြီး၏ နည်းနိဿယခံယူ၍ တရားပြသလျက်ရှိသော တရားစခန်းများ မြောက်မြားစွာ ပေါ်ပေါက်လာပါသည်။

## မဟာစည်ဆရာတော်ဘုရားကြီး ရေးသားပြုစုတော်မူခဲ့သော ကျမ်းစာများကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုပေးခဲ့ကြသော ဘာသာပြန်ဆရာကြီးများ

မဟာစည်ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ် မဟာစည်သာသနာ့ယိပ္ပအဖွဲ့ချုပ် ဥက္ကဋ္ဌ ဦးပွင့်ကောင်း တာဝန်ယူစဉ်တွင် မဟာစည်ဆရာတော်ဘုရားကြီး၏ တရားတော်များကို နိုင်ငံခြား သားများ အလွယ်တကူ လေ့လာအားထုတ်နိုင်ရန် ရည်ရွယ်၍ ဆရာတော်ဘုရားကြီးအား လျှောက်ထား ခွင့်ပန်ပြီး ကျမ်းစာများကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုရေးသားရန် စတင်ဆောင်ရွက်ခဲ့ပါသည်။

ထိုသို့ ဆောင်ရွက်ခဲ့ရာတွင် အောက်ဖော်ပြပါ ဘာသာပြန်ဆရာကြီးများမှ စေတနာသဒ္ဓါတရား ထက်သန်စွာ ဘာသာပြန်ဆိုပေးခဲ့ကြပါသည်။

၁။ ဦးထင်ဖတ် (စာရေးဆရာကြီး မောင်ထင်) အင်္ဂလိပ် ပြန်ဆိုပေးခဲ့သော စာများမှာ ဘာရသုတ္တန် တရားတော်ကြီး၊ မာလုကျပုတ္တသုတ်တရားတော်၊ နိဗ္ဗာန်ဆိုင်ရာတရားတော်၊ သီလဝန္တသုတ္တန်တရားတော်၊ ရှစ်ဖြာမဂ္ဂင် နိဗ္ဗာန်ဝင်တရားတော်တို့ဖြစ်ကြောင်း သိရပါသည်။



၂။ ဦးကိုလေး (ဇေယျာမောင်)ကလည်း
အနတ္တလက္ခဏသုတ်တရားတော်၊ ဓမ္မစကြာတရားတော်တို့ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ပါသည်။

၃။ ဦးအုန်းဖေ (တက်တိုး)
ဟေမဝတသုတ္တန်တရားတော်၊ လောကဓံတရားတော်၊ သမ္မာပရိဗ္ဗာဇနိယသုတ်တို့ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ပါသည်။

၄။ မောင်သာနိုး
ဝိပဿနာအခြေခံတရားတော်၊ မဟာစည်ကမ္မဋ္ဌာသာသနာပြု ခရီးစာတန်း (၁)၊ မဟာစည်ကမ္မဋ္ဌာသာသနာပြု ခရီးစာတန်း(၂)တို့ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ပါသည်။

၅။ ဦးအေးမောင်
အရိယာဝါသတရားတော်၊ ဓမ္မဒါယာဒသုတ်တရားတော်၊ ပဋိစ္စသမုပ္ပါဒ်တရားတော်၊ သံလေခသုတ်တရားတော်တို့ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ပါသည်။

၆။ ဦးမင်းဆွေ (မင်းကျော်သူ)
မဟာစည်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ၊ ဗြဟ္မဝိဟာရတရားတော်၊ စူဠဝေဒလ္လသုတ်တရားတော်၊ ပုရာဘေဒသုတ်တရားတော်၊ ကမ္မဋ္ဌာန်းတရားအားထုတ်ရခြင်းအကြောင်း၊ ဝမ္မိကသုတ်တရားတော်တို့ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ပါသည်။

၇။ ဦးဖေသင်
ဝိသုဒ္ဓိနှင့် ဉာဉ်တရားတော်ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ပါသည်။

၈။ ဒေါက်တာကေမြရီ
တုဝဋ္ဋကသုတ်တရားတော်ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ပါသည်။

၉။ ဒေါက်တာ သန်းနောင်
ကမ္မဋ္ဌာသာသနာပြုတရားတော်ကို ဩဝါဒကထာ၊ အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ပါသည်

၁၀။ ဒေါက်တာဦးကိုကြီး
ဝိပဿနာလမ်းညွှန်ကျမ်းကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ပါသည်။
အထက်ပါအချက်အလက်များကို မဟာစည်သာသနာ့ရိပ်သာမှထုတ်ဝေသော စာအုပ်မှ ရရှိခဲ့ပါသည်။ ကျေးဇူးကြီးလှပါသည်။

## ရဟန္တာ ဝေဘူဆရာတော်ကြီးနှင့် ရဟန္တာ မဟာစည်ဆရာတော်တို့သည် ရဟန္တာဟု ကျော်စောသော ဆားတောင်ဆရာတော်ပညာထိကထံသို့ ကြွရောက်ခြင်း

ရဟန္တာဟု ကျော်စောတော်မူသော ဝေဘူဆရာတော်ဘုရားကြီးသက်တော်ထင်ရှား ရှိစဉ်က ဝေဘူဆရာတော်ဘုရားကြီးနှင့် မဟာစည်ဆရာတော်ဘုရားကြီးတို့သည် ပခုက္ကူခရိုင် ပွင့်ဖြူမြို့နယ်၊ ဆားတောင်ကျေးရွာတွင် ရဟန္တာဟုကျော်စောတော်မူသော ဆရာတော်ဘုရားကြီး၏ ဂုဏ်သတင်းကို တောင်ပေါ်မြေပြန့်မကျန် ကြားသိရပါသောကြောင့် ဆားတောင်ဆရာတော်ဘုရားကြီးထံသို့ ကြွလာကြရာ တစ်ချိန်တည်းမဟုတ်သော်လည်း တစ်နေ့တည်းကြွလာခြင်းဖြစ်သည်ဟု သိရှိရပါသည်။ တစ်ပါးနှင့် တစ်ပါး အဝင်အထွက် လွဲရုံလောက်သာ ကြွလာခြင်းဖြစ်ပါသည်။

(ကျမ်းကိုး၊ ဤနေရာတွင် စာရေးဆရာ မောင်ချမ်းမြေ့၏ ဆားတောင်ဆရာတော် ဘုရားကြီး၏ အကြောင်း ရေးသားသည့် စာအုပ်အမှတ် (၂) 'လောကကို လွန်မြောက်ခြင်း စာအုပ်မှ စာမျက်နှာ (၂၂) မှ (၃၇)ထိ ထပ်ဆင့်ဖော်ပြလိုက်လျှင် ကျွန်ုပ်တို့အဖို့ ပိုမိုကြည်ညိုဖွယ်ရာ ဖြစ်လာမည်ဖြစ်သဖြင့် ဖြည့်စွက်ဖော်ပြပါမည်)



ထိုအချိန်အခါတွင် ဝေဘူဆရာတော်ဘုရားကြီးမှာလည်း ရဟန္တာအရှင်မြတ်ကြီးအဖြစ် အဝေးအနီး ကျော်စောတော်မူပါသည်။ ထိုအချိန်တွင် မဟာစည်ဆရာတော်ဘုရားကြီးမှာလည်း အဝေးအနီး ကျော်စောတော်မူပါသည်။ မိုးအောက်မြေပြင်တစ်ခွင် လူပြည်နတ်ပြည် ကျော်စောတော်မူသည်ဟု ပညာရှင်များ မိန့်ဆိုသည်ကို မှတ်သားဖူးပါသည်။

လူမသိ နတ်သိ၊ နတ်မသိ ရဟန္တာသိ ဆိုသည့်အတိုင်း၊ ထိုခေတ် ထိုအခါက သက်တော်ထင်ရှား ရဟန္တာကြီးများ ဖြစ်ကြသော မဟာစည်ဆရာတော်ဘုရားကြီးနှင့် ဝေဘူတောင်ဆရာတော်ဘုရားကြီးတို့ ဆားတောင်ဆရာတော် ဦးပညာဇောတကထံ တစ်နေ့တည်း ကြွရောက်မေးမြန်းသွားကြသည်များမှာ သာသနာ့တစ်ခေတ်တွင် အံ့ချီးဖွယ်ရာများ ဖြစ်ပေသည်။

ဆားတောင်ဆရာတော်သည် သက်တော်ငယ်ငယ် အသက် ၃၀ အရွယ်တွင် ပွင့်ပေါ်ခဲ့ပြီ ဖြစ်၍ အဝေးမှလာရောက်ဖူးမြော်ကန်တော့သူများ များလွန်းသဖြင့် မဏ္ဍပ်ကြီးများထိုးကာ အဖူးအမြော်ခံရလေသည်။ ဖူးမြော်သူများကလည်း တစ်နေ့တခြား များပြားလှသောအချိန်အခါ ကာလဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း)

## မဟာစည်ဆရာတော်နှင့် ဆားတောင်ဆရာတော်တို့ တွေ့ဆုံခြင်း

ထိုအချိန်တွင် ၁၃၁၈ ခုနှစ်၊ ဝါဆိုလဆန်း ၁၃ ရက် နံနက် ၈ နာရီအချိန်တွင် မဟာစည်ဆရာတော်ဘုရားကြီးသည် ဆိပ်ခွန်ကျေးရွာမှ ရန်ကုန်မဟာစည်ရိပ်သာသို့ ဝါဆိုရန်ကြွတော်မူသော အချိန်ဖြစ်ပါသည်။ ထို့ကြောင့် ထိုခရီးတွင် ဆားတောင်ရွာတွင် သီတင်းသုံးတော်မူသော ဆားတောင်ဆရာတော် ဦးပညာဇောတကထံ တပည့်နောက်ပါ သံဃာတော်များနှင့် ကြွရောက်ပြီး ဆားတောင်ဆရာတော်ကြီး၏ အဖူးအမြော်ခံရင်း အောက်ပါစကားရပ်များကို မေးမြန်းလျှောက်ထားမှုများ ပြုလုပ်ပါသည်။

(မဟာစည်တော်။) ဘယ်နည်းနှင့် တရားအားထုတ်ပါသလဲ။

(ဆားတောင်ဆရာတော်။) တပည့်တော် စွန်းလွန်း ဆရာတော်ဘုရား၏ ထေရုပ္ပတ္တိနှင့် ကျင့်စဉ်စာအုပ်ကို ဖတ်ရှုလေ့လာပြီး သမ္မပ္ပဓာန်ကျင့်စဉ်အတိုင်း အားထုတ်ပါတယ် ဘုရား။

(မဟာစည်ဆရာတော်။) စွန်းလွန်း ဦးကဝိ၏ နည်းကလည်း အလွန်ကောင်းတဲ့နည်းပါပဲ၊ ဦးကဝိလိုကော ပြင်းပြင်းထန်ထန် အားထုတ်နိုင်ပါရဲ့လား။

(ဆားတောင်ဆရာတော်။) မှန်လှပါ၊ တပည့်တော် စွန်းလွန်းဆရာတော် ဘုရားလိုပဲ အားထုတ်နိုင်ပါတယ်ဘုရား၊ အမှန်က စွန်းလွန်းဆရာတော်နည်းအတိုင်းပဲ၊ တပည့်တော် လောဘ၊ ဒေါသ၊ မောဟစွန့်လွှတ်နိုင်တာ ဆိုတော့ စွန့်လွှတ်နည်း ဆိုဆို၊ စွန်းလွန်းနည်း ဆိုဆို အားထုတ်ရတာကတော့ စွန့်လွှတ်နည်းပါပဲ ဘုရား။

(မဟာစည်ဆရာတော်။) တရားအားထုတ်ရတာ အားရပါးရရှိပါရဲ့လား။

(ဆားတောင်ဆရာတော်။) အားထုတ်ရတာ အားရပါးရရှိပါတယ်ဘုရား။

(မဟာစည်ဆရာတော်။) တရားအရသာ အားရပါးရခံစားရပါသလား။

(ဆားတောင်ဆရာတော်။) မှန်လှပါ၊ အားရပါးရ ခံစားရပါတယ်ဘုရား။

(မဟာစည်ဆရာတော်။) ဒီအတိုင်းဆို မလွဲပါဘူး၊ အသက်လည်းငယ်ပါသေးတယ်၊ ရှေ့ဆက်ပြီး ကိုယ်ခံစားရသလို ဝေနေယျတွေကိုလည်း တရားစခန်း



ဖွင့်ပြီး တရားပြပေဦးဟုဆိုကာ ဘုရားကိုကန်တော့ပြီး မဟာစည် ဆရာတော်ဘုရားကြီးနှင့်တကွ နောက်ပါသံဃာတော်များသည် မိမိတို့စီးလာသောကားများဖြင့် ရန်ကုန်သို့ ကြွတော်မူကြသည်။

ထိုအချိန်တွင် ရွာသူရွာသားများနှင့်တကွ ဧည့်သည်အများအပြားတို့သည် ကြက်ပျံမကျတိုးဝှေ့၍ တအုန်းအုန်းနှင့် စုရုံးသွားလာနေကြသည်။ ဖူးမြော်ရန်ခဲယဉ်းလှစွာသော ရဟန်းတော်အကျော်အမော် မဟာစည်ဆရာတော်ဘုရားကြီးကို ဖူးတွေ့နေရသောကြောင့် ပွင့်ပေါ်စ ဆားတောင်ဆရာတော်ကိုလည်း အားရကျေနပ်ကြည်ညိုသဒ္ဓါပွားမိနေကြသောအချိန်ဖြစ်၍ ဆရာတော်ကြီးများကို ဖူးမဝ ဖြစ်ကြရပါသည်။

## မဟာစည်ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန် ပြုသွားသည်ဟူ၍ မိန့်ကြားတော်မူခဲ့ခြင်းမှတ်တမ်း

နောင်သောအခါ မဟာစည်ဆရာတော်ဘုရားကြီးသည် ရန်ကုန်တွင် ခန္ဓာဝန် ချတော်မူသည်ဟု သိရှိရပါသည်။ ထိုအခါ ထိုသတင်းကို ကြားသိရသော ဒကာတစ်ယောက်သည် ဆားတောင်ဆရာတော် ဘုရားကြီး သီတင်းသုံးရာ စဥ့်ကိုင်မြို့နယ်က သဲကုန်းကျေးရွာ၊ မင်းရွာကုန်းကျောင်းရိပ်သာသို့သွား၍ လျှူဒါန်းဖူးမြော်ပြီးနောက် စကားအလျဉ်းသင့်သဖြင့် အောက်ပါအတိုင်း လျှောက်ထားသည်ဟုဆိုပါသည်။

'မနေ့က မဟာစည်ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသွား ပြီဘုရား' ဟူ၍ လျှောက်ထားရာ ဆားတောင်ဆရာတော်ဘုရားကြီးက ထိုစကားကို မနှစ်သက်သဖြင့် ပြန်လည်၍မိန့်ကြားပုံမှာ -

'မဟာစည်ဆရာတော်ကြီး ပျံလွန်တော်မူတာ မဟုတ်ပါဘူး၊ ပရိနိဗ္ဗာန် ပြုသွားတော်မူတာပါ'ဟု မိန့်ကြားတော်မူပါသည်ဟု သိရှိရပါသည်။ နားလည် သူများကလည်း ရဟန္တာအရှင်မြတ်အချင်းချင်းမို့ သိခြင်းဖြစ်ဟန်တူပါသည်ဟု ဆိုကြပါသည်။

မဟာစည်ဆရာတော်ဘုရားကြီးကို ကျမ်းတတ်အကျော်ဆရာတော်ကြီး တစ်ပါးအဖြစ်သာ ရဟန်းရှင်လူအသိများကြပါသည်။ ရဟန္တာဖြစ်ကြောင်း ရဟန်းရှင်လူ အသိနည်းကြပါသည်ဟု သိရပါသည်။ ဆားတောင်ဆရာတော်ဘုရားကြီး၏ မိန့်တော်မူချက်အရ မဟာစည်ဆရာတော် ဘုရားကြီးသည် ရဟန္တာကိုယ်တော်မြတ်ကြီးဖြစ်ကြောင်း ခိုင်လုံစွာသိရှိရသဖြင့် ပိုမို၍ ကြည်ညို မိပါသည်။

(ကျမ်းကိုး၊ စာရေးဆရာ မောင်ချမ်းမြေ့၏ ဆားတောင်ဆရာတော် ဘုရားကြီး၏အကြောင်း ရေးသားသည့် စာအုပ်အမှတ် (၂) 'လောကကို လွန်မြောက်ခြင်း စာအုပ်မှ စာမျက်နှာ (၂၂) မှ (၂၇)

(ကျမ်းကိုး၊ သင့်ဘဝ ဦးရဲလွင်၊ မဟာစည်ဆရာတော်၏ ထေရုပ္ပတ္တိအကျဉ်းချုပ်၊ ပရိယတ် ပဋိပတ် အကျော်အမော်၊ ထေရဝါဒမဟာထေရ် ဆရာတော်ကြီးများ ၁၉၉၆ ခု၊ စက်တင် ဘာလ၊ ပထမအကြိမ်၊ စာ ၇၀-၇၂ လင်းရောင်ခြည် မဂ္ဂဇင်း)

(ကျမ်းကိုး၊ ရွှေဥဩ ဂန္ထဝင်ကျော်ရဟန်းတော်များ၊ ၂၀၀၀ ပြည့်နှစ်၊ ဇန်နဝါရီလ ပထမ အကြိမ်၊ ပညာရွှေတောင်၊ ဖြန့်ချိရေး၊ စာ ၂၈၂ - ၂၈၄ )

ဓာတ်တော်များကျမှသာ ဖူးမြော်ရ၍ ရဟန္တာဟု သိတော်မူရသော

မကွေးတိုင်းဒေသကြီး၊ ရေစကြိုမြို့နယ်၊ ပုခန်းငယ်ကျေးရွာ၊ စိန်စီကျောင်းဆရာတော်

# သက်တော် ၁၀၀ ရှိ ဆရာတော် ဦးအာစာရ

အေဒီ ၁၉၀၅ – ၂၀၀၄ ( ၁၂၆၆ –၁၃၆၆ )





ဆရာတော်ဘုရားကြီးမှာ သက်တော် ၁၀၀ ပြည့်ပြီ ဖြစ်၏။ ဝါတော် ၈၀ ရှိပြီ ဖြစ်၏။ "အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ သာသနာပြု ပထမအဆင့် ဘဒ္ဒန္တအာစာရ" ဟူ၍ စာတွင်တွေ့ရှိရပါသည်။

သက်တော်ရှည်ဆရာတော်ဘုရားကြီးမှာ ပုခန်းငယ် ကျေးရွာတွင် တည်ရှိသော စိန်စီကျောင်းခေါ် ရွှေဟောင်းကျောင်းတော်ကြီး၏ တောင်ဘက်တွင် ကပ်လျက်ရှိသော ကျောင်းဆောင်ကြီးတွင် တစ်ပါးတည်း သီတင်းသုံးလျက် တရားအားထုတ်နေတော်မူသော ဆရာတော်ကြီး ဖြစ်ပါသည်။

သိုင်ုသိပ်သိပ် နေထိုင်ကျင့်ကြံအားထုတ်သဖြင့် လူသိမများလှဟု ဆိုပါသည်။ သို့သော်လည်း ဆရာတော်ကြီး သက်တော် ၉၉ နှစ် သိက္ခာတော် ၇၉ ဝါ ရတော်မူသောအခါ ခန္ဓာဝန်ချတော်မူပါသည်။ ထိုအခါ ကြွင်းကျန်သော ရုပ်ကလာပ်တော်ကို အဂ္ဂိဈာပနကျင်းပတော်မူကြပါသည်။

ထိုပုခန်းငယ်စိန်စီကျောင်း ကျောင်းတော်ကြီးဆရာတော် အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ သာသနာပြု ပထမအဆင့် ဘဒ္ဒန္တအာစာရ သက်တော် ၁၀၀ နှစ် သိက္ခာတော် ၈၀ ၏ မဟာထေရုပ္ပတ္တိ ရုပ်ပုံလွှာကို ဓာတ်တော်များ တဖွားဖွားကျသောအခါမှ ဝမ်းနည်းဝမ်းသာ လေ့လာရ၍ အလွန်နောက်ကျလှပါတော့သည်။

> ထိုအခါ ရုပ်ကလာပ်တော်မှ ဓာတ်တော်များ တဖွားဖွား လွင့်စဉ်ထွက်ကျတော်မူသဖြင့် ပူဇော်ရန်အလို့ငှာ ရှာဖွေကောက်ယူကြပါသည်။ ထိုအခါမှသာ ငါတို့ကိုးကွယ်သော ဆရာတော်ကြီးသည် ရဟန္တာကြီးပါတကားဟု အချိန်နှောင်းမှာ သိကြရသည်။ ဓာတ်တော်များ ရှာဖွေကောက်ယူရသည်မှာ အဂ္ဂိဈာပန ကျင်းပပြီးနောက် ၁၀ ရက်ကျော်ကြာသည်အထိ ဓာတ်တော်ကောက်သူများအဖြစ် စည်ကားဆဲဖြစ်ကြောင်း သိရှိရပါသည်။
>
> (ကျမ်းကိုး။မျိုးမြင့် တမာမြေ၊ စိန်စီကျောင်းမှ တရားပြကောင်းသောဆရာတော်၊ နဝ္ဂတ္တရောင်ခြည်မဂ္ဂဇင်း၊ စာမျက်နှာ ၄၁-၄၄)

၎င်းအပြင် ထူးဆန်းသော အချက်တစ်ချက်ကို မျက်ဝါးထင်ထင် တွေ့မြင်ကြရပြန်ပါသည်။

> ဘာများထူးဆန်းသလဲဟု စပ်စုပြန်သောအခါ သိရှိရသည်မှာ အိပ်ရာခင်းပေါ်တွင် ဆရာတော်ကြီး၏ ယာဘက်လက်ဖဝါးတော်ရာကို မပျောက်မပျက် ထင်ထင်ရှားရှားကြီး ထင်းထင်းကြီး ကျန်ရှိနေ၍ ပူဇော်ထားသည်ဟု သိရပါသည်။
>
> (ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၄ )

ယခုအခါ နောင်လာနောက်သားတို့ ကြည်ညို ပူဇော်နိုင်သည်မှာ ဆရာတော်ကြီး၏ ကိုယ်စားတော် ပုံတူရုပ်တုတော်ကြီးနှင့် ဓာတ်တော်များသာ ဖြစ်ပါတော့သည်။

> အရိုးတော် ဓာတ်တော်များနှင့်တကွ ဆရာတော်ကြီး ရှိတော်မူစဉ်က အသုံးပြုတော်မူခဲ့သော အသုံးအဆောင်ပစ္စည်းများနှင့်တကွ ပူဇော်ထားရှိကြပါသည်။ ဆရာတော်ကြီး၏ ကိုယ်စားတော်ပုံတူ ရုပ်တုတော်ကြီးကိုလည်း ထုလုပ်ပူဇော်ထားကြောင်း သိရှိရပါသည်။
>
> (ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၄ )

ပုခန်းငယ် စိန်စီကျောင်းဆရာတော်ဘုရားကြီး၏ သမိုင်းကြောင်းကို ခြေရာကောက်သောအခါ အောက်ပါအတိုင်း တွေ့ရှိရပါသည်။

ဆရာတော်ကြီး၏ ဘွဲ့အမည်တော်မှာ ဦးအာစာရဖြစ်ကြောင်း သိရှိရပါသည်။



မကွေးတိုင်းဒေသကြီး ရေစကြိုမြို့နယ်၊ ပုခန်းကြီးမြို့ဟောင်း၏ အရှေ့ဘက်တွင် ပုခန်းငယ်ရွာ ဟူ၍ ရွာကလေးတစ်ရွာရှိ၏။ ထိုပုခန်းငယ်ရွာသည် ပုခန်းကြီးရွာနှင့် ၂ မိုင်လောက် ဝေး၏။ ထိုပုခန်းငယ်ရွာ၏အနီးတွင် အလွန်ဆန်းကြယ်သော ရွာတစ်ရွာရှိ၏။ ထိုရွာ၏ အမည်မှာ ချစ်သူကျေးရွာဟူ၍ ဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၀)

ဤအမည်မျိုးကို ရှေးယခင်က ကျွန်ုပ်သည် ကြားဖူးခဲ့သဖြင့် အတန်ငယ်စဉ်းစား တွေးတောမိပါသည်။ ထိုအခါမှ ချစ်သူရွာ ဇာတိဖြစ်သော သီလရှင် မယ်နတ်ပေးကို သတိရမိပါသည်။

မင်းတုန်းမင်း၏ ငယ်ချစ်ဟု နာမည်ကြီးခဲ့သော မယ်သဲ၏ ဇာတိချက်မြှုပ်ရွာမှာလည်း ချစ်သူရွာပင်ဖြစ်ပါသည်။ မင်းတုန်းမင်းသား ငယ်ငယ်က မင်းတုန်းမြို့ကို စားရ၏။ ထိုမင်းတုန်းမြို့စားကလေး မောင်လွင်သည် ချစ်သူရွာဇာတိ မယ်သဲနှင့် ချစ်သူဖြစ်ခဲ့ကြသည်။ နောင်သောအခါ မယ်သဲသည် မြောက်နန်းစံမိဘုရားကြီး ဖြစ်လာခဲ့ပါသည်။

ထိုအခါ မယ်သဲကဲ့သို့ပင် ချစ်သူရွာ ဇာတိများဖြစ်ကြသော သီလရှင် မယ်နတ်ပေး စသည်တို့သည်လည်း ရွှေနန်းတော်ပေါ်က် သီလရှင်ကြီးများအဖြစ် ကျော်ကြားခဲ့ပါသည်။ ထို့ကြောင့်လည်း ကျွန်ုပ်သည် အလွန်ဆန်းကြယ်သော ရွာနာမည်ကလေးကို မှတ်မိနေခြင်း ဖြစ်ပါသည်။

(ကျမ်းကိုး၊ လယ်တီ ဦးလုပိုင် ပုခန်း သာသနာဝင်၊ စာ ၃၇ ၃၈ ၃၉ ၄၀)

၁၉၀၅ ရဟန္တာအရှင်မြတ်ကြီးဖြစ်သော အရှင်အာစာရ အလောင်းအလျာကို ထိုချစ်သူရွာတွင် အေဒီ ၁၉၀၅ ခု၊ ဖေဖော်ဝါရီ ၁၂ ရက်၊ (၁၂၆၆ ခု၊ တပို့တွဲလဆန်း ၉ ရက်)တနင်္ဂနွေနေ့တွင် ဖွားမြင်ခဲ့သည်ဟု သိခဲ့ရပါသည်။ ဖခင်မှာ ဦးထွန်းမောင် ဖြစ်ကြောင်း မိခင်မှာ ဒေါ်သက်ရှည်ဖြစ်ကြောင်း သိရှိရပါသည်။ အများအားဖြင့်ကား ရဟန္တာကိုယ်တော်ကြီးများကို ဓာတ်တော်များ တဖွားဖွားကျသော အခါမှ ရဟန္တာမှန်း သိကြရသော်လည်း အချို့မှာ ငယ်စဉ်ကာလ ဘဝဖြစ်စဉ်ကို မသိကြရသဖြင့် ကျွန်ုပ်တို့အတွက် ကြီးစွာသော ဆုံးရှုံးခြင်း သမိုင်းကွက်လပ်ကြီး ဖြစ်ကြရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၄ )

ယခုကား ထိုက်သင့်သလောက် သိရပေသေးသည်ဟု ကျေနပ်မိပါသည်။

၁၉၂၃ ဦးအာစာရသည် အေဒီ ၁၉၂၃ ခု၊ ဇွန် ၂၂ ရက်၊ သောကြာနေ့ (၁၂၈၅ ခု၊ ဝါဆိုလဆန်း ၁၀ ရက်) နေ့လယ် ၂ နာရီအချိန်တွင် မကွေးတိုင်း ရေစကြိုမြို့နယ်၊ အောင်မြေသာယာ သူဌေးကျောင်းတိုက်တွင် ခဏ္ဍာသိမ်၌ ဆရာတော် ဦးအာစာရကို ဥပဇ္ဈာယ်ပြု၍ ဒေါ်ငွေခိုင်၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းပြုတော်မူခဲ့ကြောင်း သိရှိရပါသည်။

၁၉၃၅-၅၁ အေဒီ ၁၉၃၅ ခု (၁၂၉၇ ခုနှစ်) မှ စ၍ ၁၉၅၁ ခုနှစ် အထိ နှစ်ပေါင်း ၁၆ နှစ်တိုင်တိုင် ထိုအောင်မြေသာယာ သူဌေးကျောင်းတိုက်၌ပင် ရဟန်းသာမဏေ အပေါင်းတို့အား စာဝါများ သင်ကြားပို့ချခဲ့ကြောင်း သိရှိရပါသည်။



၁၉၅၁ ၎င်းနောက် အေဒီ ၁၉၅၁ ခု (၁၃၁၃ ခုနှစ်) မှစ၍ ပုခန်းငယ် ကျေးရွာရှိ စိန်စီကျောင်းတွင် သီတင်းသုံးခဲ့ကြောင်း သိရပါသည်။ စိန်စီကျောင်းဟု ဆိုသော်လည်း ထိုရှေးဟောင်း ကျောင်းတော်ကြီး၏ တောင်ဘက်တွင် ကပ်လျက်ရှိသော ကျောင်းဆောင်ကြီးတွင် တစ်ပါးတည်း သီတင်းသုံးခြင်း ဖြစ်ပါသည်။

၂၀၀၃ ၂၀၀၃ ခုနှစ် ဒီဇင်ဘာလ ၅ ရက်နေ့ ညနေ ၄နာရီ ၅၇ မိနစ်တွင် ခန္ဓာဝန်ချတော်မူကြောင်း သိရှိရပါသည်။ ကြွင်းကျန်သော ရုပ်ကလာပ်တော်ကို ၂၀၀၃ ခုနှစ် ဒီဇင်ဘာလ ၂၇ ရက်/ ၂၈ ရက်/ ၂၉ ရက် / ၃ ရက်တိုင်တိုင် ကြီးကျယ်ခန်းနားစွာဖြင့် အန္တိမအင်္ဂါရုပနကို ကျင်းပခဲ့ကြောင်း သိရပါသည်။

**၂၀၀၃ ခုနှစ်၊ ဒီဇင်ဘာလ ၂၉ ရက်နေ့ ညနေ ၄ နာရီ ၄၇ မိနစ်တွင် မီးသင်္ဂြိုဟ်ကြပါသည်။ ထိုအခါဓာတ်တော်များ တဖွားဖွားကျကြောင်း သိရှိရပါသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၄ )

ဆရာတော်ကြီးသည် သက်တော်ထင်ရှား ရှိစဉ်ကလည်း ပရိသတ်များနှင့် ဆက်ဆံမှုကျဲပါသည်။ လာရောက်ဖူးမြော်သူ အပေါင်းကိုလည်း လိုရင်းကိစ္စပြီးလျှင် ပြန်ပြန် ဟူ၍သာ ပြောလေ့ရှိပါသည်။

ဆရာတော်ကြီးသည် နှစ်ပေါင်း များစွာပင်လျှင် ထိုကျောင်းကြီးပေါ်မှာပင်လျှင် တစ်နေရာတည်းမှာသာ ထိုင်လေ့ရှိ၍ ထိုနေရာမှာပင် ဆွမ်းဘုဉ်းပေးလေ့ရှိပြီး ထိုနေရာမှာပင် တရားဘာဝနာများ အားထုတ်၍ ထိုနေရာမှာပင် ကျိန်းစက်လဲလျောင်းလေ့ရှိပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၄)

## ဆရာတော်ကြီး၏ အသုံးအဆောင်များ စာရင်း

ကျောင်းတွင်လည်း အသုံးအဆောင်အပိုမရှိ။ သပိတ်တစ်လုံးရှိ၏။ သံအုပ်ဆောင်းကြီးအုပ်ထားသော သံလင်ပန်းရှိ၏။ ထိုသံလင်ပန်းပေါ်တွင် ဟင်းလျာခံ သတ္တုကြုတ် ၇ လုံး၊ ၈ လုံး ရှိ၏။ အသုံးအဆောင်ဆိုသည်မှာ ထိုမျှသာဖြစ်ပါသည်။

ဆရာတော်ကြီးသည် ဆုပေးလေ့ ပေးထရှိသည်မှာ လည်း များများမဟုတ်။ လိုရင်း တိုရှင်းသာ ဖြစ်၏။ ဥပမာအားဖြင့် ပြောရလျှင် အောက်ပါအတိုင်းဖြစ်ကြောင်း သိရပါသည်။

ဤသို့ ဝါဆို သံဃာများအား ရည်မှန်း၍ ဝါဆိုသင်္ကန်းများ ကပ်လှူပူဇော်ရသော ကောင်းမှုကံစေတနာတို့ကြောင့် ချမ်းသာစစ်ချမ်းသာမှန်ဖြစ်သော နိဗ္ဗာန်ဆုထူးဆုမြတ်ကြီးကို လဆန်း ၁၅ရက် နေ့တွင် ထွက်သော လပြည့်ဝန်းကြီးကဲ့သို့ ပြည့်ပြည့်ဝဝကြီး ရကြပါစေဟု ဆုပေးလေ့ရှိသည်။ ပြီးလျှင် ကဲ ကဲ ပြန်ကြတော့ဟု ပြောလေ့ရှိပါသည်။ ထိုအခါ ဒကာ ဒကာမတို့မှာလည်း ဆက်ထိုင်ရန် အကြောင်းမရှိတော့သဖြင့် သွားကြရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၃)

၂၀၀၃ ခန္ဓာဝန် မချမီ တစ်ရက်အလိုက ဖြစ်ပါသည်။ ထိုနေ့ နံနက်ပိုင်းတွင် ဆွမ်းပို့သူများ၏ အပြောအရ သိရှိရသည်မှာ ၂၀၀၃ ခု၊ နိုဝင်ဘာလ ၅ ရက်နေ့၊ နံနက်ပိုင်းတွင် အထူးအဆန်းပြော၏။ ပြောပုံမှာ ဤသို့ဖြစ်၏။



ငါ ဒီနေ့ သေမယ်၊ အခု အစမ်းသေကြည့်မယ်ဟု ပြောပါသည်။

ထိုသို့ ပြောပြီးနောက် တကယ့် အသေရုပ်ကလာပ်ကြီးပမာ ပက်လက်အနေအထားဖြင့် လျောင်းစက်တော်မူပါသည်။ အချိန်တော်တော်ကြာအောင် မလှုပ်မယှက်နေခဲ့ပါသည်။ ထိုအခါ အနီးရှိ တူ တူမ သားချင်းအပေါင်းတို့နှင့် ဒကာ ဒကာမ အပေါင်းတို့က တကယ်ပင် ခန္ဓာဝန်ချတော်မူသည်ထင်ပြီး ငိုကြပါသည်။ ထိုအခါ ဆရာတော်ကြီးက လျောင်းစက်ရာမှ အသာထပြီး ဤသို့ဆိုပါသည်။

သေကြည့်ရတာ မကောင်းပါဘူးကွာ ဆင်းရဲလှတယ်ဟူ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၃)

၂၀၀၃ ဤသို့ဖြင့် ဆရာတော်ကြီးသည် ထို ၂၀၀၃ ခု၊ နိုဝင်ဘာလ ၅ ရက်နေ့ အစမ်းအသေပြသည့် ထိုနေ့ညနေ ၄ နာရီ ၅၇ မိနစ်တွင် တကယ့်ကို ခန္ဓာဝန်ချတော်မူခဲ့ပါသည်။

ဤတွင် ထူးခြားချက်ကြီးတစ်ခုမှာ ပုစ္ဆာတစ်ပိုဒ်သဖွယ် ကျန်ခဲ့ပါသည်။ ဤသည်မှာ အခြားမဟုတ်ပါ။ ဆရာတော်ကြီး လဲလျောင်းတော်မူသည့် လက်ယာဘက်လက်ဖဝါးရာတစ်ခုကို ထင်ရှားစွာ ချထားခဲ့ခြင်းဖြစ်ပါသည်။ ထိုလက်ဖဝါးရာကို ယခုထက်တိုင် ဖူးမြော်နိုင်ပါသေးသည်။ ပျောက်ပျက်သွားခြင်းမရှိပါ။ ဆိုလိုရင်းကိုလည်း မည်သူမျှ မပြောနိုင်ကြပါ။

(ကျမ်းကိုး၊ မျိုးမြင့် (တမာမြေ)၊ စိန်စီကျောင်းမှ တရားပြကောင်းသောဆရာတော်၊ နက္ခတ္တ ရောင်ခြည်မဂ္ဂဇင်း၊ စာမျက်နှာ ၄၁-၄၄)

ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးနိုင်သေးသော ကယားပြည်နယ် လွိုင်ကော်မြို့ရှိ ရတနာသိဒ္ဓိတောင်တော် ရတနာသိဒ္ဓိတောရ ဂူကျောင်းဆရာတော်

# အရှင်ပညာသာမိ

ခေအဒီ ၁၉၀၆ – ၁၉၉၁ ( ၁၂၆၈ – ၁၃၅၃ )





ကယားပြည်နယ် လွိုင်ကော်မြို့တွင် ရတနာသိဒ္ဓိတောင် ဟူ၍ရှိ၏။ ထိုတောင်တွင် ရတနာသိဒ္ဓိ ဂူကျောင်း ဟူ၍ ရှိ၏။ ထိုဆရာတော် ဦးပညာသာမိ၏ ရုပ်ကလာပ်တော်ကို ယနေ့တိုင် ဖူးတွေ့နိုင်ပါသေး၏။ ကြည်ညိုဖွယ်ရာ ဖြစ်ပါသည်။

ရတနာသိဒ္ဓိတောင်မှာ လွိုင်ကော်မြို့ အရှေ့မြောက်တွင် ရှိသည်။ လူသိများသည့် တောင်တစ်လုံး ဖြစ်သည်။ ထိုတောင်တော် အောက်တစ်နေရာတွင် စံကျောင်းတော်တစ်ခုရှိ၏။ ထိုစံကျောင်းထဲတွင် ဦးပညာသာမိ၏ ရုပ်ကလာပ်တော်ကို မှန်ခေါင်းသွင်းထားကြောင်း ဖူးတွေ့ရပါသည်။

ထိုနေရာသည် ဦးပညာသာမိ သက်တော်ထင်ရှားရှိစဉ်က ကျင့်ကြံအားထုတ် အောင်မြင်ခဲ့သည့် လိုဏ်ဂူဖြစ်သည်ဟူ၍ ဆိုကြပါသည်။ ဂူကြီးမှာ သဘာဝကျောက်ဂူကြီးဖြစ်၏။ အကျယ် ၈ ပေလောက် ရှိ၏။ အမြင့် ၁၀ ပေလောက်ရှိ၏။ ထိုနေရာမှာ လက်ဝဲ လက်ယာသို့ လမ်းများရှိ၏။ လိုဏ်ပေါက်အတိုင်း ဆင်းသွားနိုင်ပါသည်။

၁၉၉၁ ဦးပညာသာမိသည် ၁၉၉၁ ခုနှစ်ကတည်းက ပျံလွန်တော်မူခဲ့သည်ဟု ဆိုပါသည်။ ထိုစဉ်က ဆရာတော်ကြီးသည် သက်တော် ၈၅ ရှိပြီဟု ဆိုပါသည်။ သို့သော် ဝါတော်ကား ၁၅ ဝါ မျှသာ ရှိသည်ဟု ဆိုပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၂၂)

သို့သော်လည်း ယနေ့တိုင် ဆရာတော်၏ ရုပ်ကလာပ်တော်မှာ နှစ်ပေါင်း ၂၀ ကျော် ကြာရှည် သည့်တိုင်အောင် မပုပ်မသိုး တည်ရှိနေသဖြင့် နောင်လာနောက်သားများအတွက် မှတ်တမ်းတင်ရပါ သည်။ ဆက်လက် လေ့လာနိုင်ပါသည်။

၁၉၄၀ ဦးပညာသာမိသည် အသက် ၃၅ နှစ်အထိ ကျောင်းဆရာဘဝဖြင့် အသက် မွေးခဲ့သည်။ ထိုနှစ်သည် ၁၉၄၀ ခုနှစ်ဖြစ်၏။

၁၉၂၆ ငယ်စဉ် အသက် ၂၀ အရွယ်က ရဟန်းဝတ်ခဲ့ဖူး၏။ ထိုနှစ်သည် ၁၉၂၆ ခုနှစ်ဖြစ်၏။ ၎င်းနောက် ၅ ဝါရသောအခါ လူထွက်ခဲ့သည်ဟု ဆိုပါသည်။ လူထွက် သောနှစ်သည် ၁၉၃၁ ခုနှစ်ဖြစ်၏။

၁၉၃၁ ၎င်းနောက် ဆောက်လုပ်ရေးအတွက် ကျွန်းသစ်လုံးများ ဝယ်ရန်ကိစ္စဖြင့် လွိုင်ကော်သို့ ရောက်လာသည်ဟုဆိုပါသည်။ ကျွန်းသစ်မှာ အင်းလေးဖောင်တော်ဦး စေတီကျောင်းတော် တည်ဆောက်ရေးကိစ္စ ဖြစ်သည်ဟုဆိုပါသည်။ ဤသို့ဖြင့် သစ်လုပ် သားဘဝဖြင့် အသက် ၄၀ အထိ အသက်မွေးဝမ်းကျောင်း ပြုခဲ့လေသည်ဟု သိရပါ သည်။

အသက် ၅၅ နှစ်ဖြစ်သောအခါ ဗိန္ဓောဆရာလည်း ဖြစ်ခဲ့၏ဟု သိရပါသည်။ ၎င်းနောက် မီးသွေးဖုတ်သော အလုပ်ကိုလုပ်၍ အသက်မွေးဝမ်းကျောင်း ပြုခဲ့သည်ဟု လည်း သိရပါသည်။ ဤသို့ဖြင့် အသက် ၅၅ နှစ် ရောက်ခဲ့လေသည်။

၁၉၇၆ ဤသို့ အသက်မွေးခဲ့ရာ အသက် ၇၀ အရွယ်သို့ ရောက်ခဲ့သည်ဟု ဆိုပါသည်။ ထိုနှစ်သည် ၁၉၇၆ ခုနှစ် ဖြစ်၏။

၁၉၇၆ ထိုနှစ်တွင် ကိုရင်ကြီး ဝတ်ပြန်သည်ဟု ဆိုပါသည်။ လွိုင်ကော်မြို့ ချိကယ် အုပ်စု ဒေါလျားလီရွာမှ ရွာကျောင်းဆရာတော်ထံတွင် ကိုရင်ကြီးဝတ်သည်ဟု ဆိုပါ သည်။ ထိုအခါ အသက် ၇၀ ဖြစ်၏။ ၁၉၇၆ ခုနှစ် ဖြစ်၏။

ထိုစဉ်အခါမှ စ၍ တရားဘာဝနာကို ပြင်းပြင်းထန်ထန် အားထုတ်သည်ဟု



သိရှိရပြန်ပါသည်။ မှတ်တမ်း များအရ သိရသည်မှာ အောက်ပါအတိုင်းဖြစ်၏။

၁၉၇၇ ဒေါစောဘီတောင်ခြေတွင် (၁) ဝါ သီတင်းသုံးခဲ့၏။ ထိုနှစ်သည် ၁၉၇၇ ခုနှစ်ဖြစ်၏။

၁၉၇၈ ၎င်းနောက် ရတနာသိဒ္ဓိ တောရဂူတွင် (၁) ဝါ သီတင်းသုံးခဲ့၏။ ထိုနှစ်သည် ၁၉၇၈ ခုနှစ်ဖြစ်၏။

၁၉၈၀ ၎င်းနောက် နတ်တောင်အရှေ့တွင် (၂) ဝါ သီတင်းသုံးခဲ့၏။ ထိုနှစ်သည် ၁၉၈၀ ခုနှစ်ဖြစ်၏။

၁၉၈၁ ၎င်းနောက် ငှက်ပျောတောတွင် (၁) ဝါ သီတင်းသုံးခဲ့၏။ ထိုနှစ်သည် ၁၉၈၁ ခုနှစ်ဖြစ်၏။

၁၉၉၁ ၎င်းနောက် ရတနာသိဒ္ဓိတောရဂူကျောင်းတွင် (၁၀) ဝါ သီတင်းသုံးခဲ့၏။ ထိုနှစ်သည် ၁၉၉၁ ခုနှစ်အထိ ဖြစ်၏။ ဤသို့ သိရပါသည်။ ထို့ကြောင့် ကိုရင်ကြီးသည် ၁၅ ဝါ ရှိသည်ဟု သိရပါသည်။

၁၉၉၁ ခု၊ နိုဝင်ဘာ ၁၂ ရက် အင်္ဂါနေ့ ည ၁၅ း ၀၂ နာရီတွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်ဟုသိရပါသည်။ ထိုအခါ သက်တော် ၈၅ နှစ်ရှိပြီ၊ ဝါတော် ၁၅ ဝါ ရှိပြီ ဖြစ်လေသည်။ ဤမျှသာ သိရပါသည်။ ဦးပညာသာမိ၏ ရုပ်ကလာပ်သည် ယနေ့တိုင်တည်ရှိနေလေသည်။

(ကျမ်းကိုး၊ ခေတ္တရာ ဆရာကျော်၊ နက္ခတ္တရောင်ခြည်၊ ၂၀၀၄ ခု၊ ဇွန်လ အမှတ် ၂၁၅ ၊ စာ ၁၇-၂၂ ကို ကြည့်ကြပါ။)

ရဟန္တာဟု ကျော်ကြားတော်မူသော

# ပုသိမ် သံပတ်ဆရာတော်ကြီး ဦးအာစိဏ္ဏ

အေဒီ ၁၉၀၆ – ၁၉၉၁ ( ၁၂၆၈ –၁၃၅၃ )





သံပတ်ဆရာတော်ဟူ၍ ကြားဖူးသော်လည်း အသေအချာ မသိရသဖြင့် ဘာမှန်းမသိပါ။ သို့သော်လည်း တစ်နေ့သောအခါ ပုသိမ်သား သာသနာ့အကျိုးဆောင် စာရေးဆရာမကြီး ပုသိမ် ဒေါ်လှလှသီ၏စာကို ဖတ်ရာမှ သံပတ်ဆရာတော်အကြောင်း သိရသဖြင့် အသိနောက်ကျသည်ဟု ကိုယ့်ကိုယ်ကိုယ် အပြစ်တင်မိပါသည်။ သံပတ်ဆရာတော်ကို သတိသံပတ်ပေးနေသည့် သံပတ်ဆရာတော်ကြီးဟူ၍ အမိပ္ပာယ်ဖွင့်ဆိုကြပါသည်။

၁၉၉၁ ဆရာတော်ကြီး၏ဘွဲ့မှာ ဦးအာစိဏ္ဏဖြစ်ကြောင်း သိရပါသည်။ သံပတ်ဆရာတော်ကြီးသည် ၁၃၅၃ ခု၊ နတ်တော်လဆန်း ၁၀ ရက်၊ (၁၉၉၁ ဒီဇင်ဘာလ ၁၆ ရက်)တနင်္လာနေ့နံနက် ၅ နာရီ ၄၅ မိနစ်အချိန်တွင် ပျံလွန်တော်မူခဲ့သည်ဟု သိရပါသည်။

၁၉၉၁ ဆရာတော်ကြီး မကျန်းမာသဖြင့် ၁၉၉၁ ခု၊ ဒီဇင်ဘာလ ၁၃ ရက်နေ့တွင် ပုသိမ်မြို့၊ ဧရာဝတီတိုင်း သံဃာ့ဆေးရုံသို့ တင်ထားကုသခဲ့ကြောင်း သိရပါသည်။ ၎င်းနောက် ၁၉၉၁ ဒီဇင်ဘာ ၁၆ ရက်နေ့တွင် ပျံလွန်တော်မူခြင်းဖြစ်သည်ဟု သိရပါသည်။

၁၉၉၁ အချို့ကမူ ဆေးရုံတွင်ကျန်ရစ်သော အလွတ်ခုတင်ကို ကန်တော့ဝပ်ချလျက်ရှိကြောင်း တွေ့ရသည်ဟု သိရှိရပါသည်။ ဆရာတော်၏ ရုပ်ကလာပ်တော်ကို ၁၉၉၁ ခု ဒီဇင်ဘာလ ၁၆ ရက်နေ့ နံနက်စောစောကပင်လျှင် ပြန်လည်ပင့်ဆောင် သွားကြပါသည်။

၁၉၉၂ ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်မှ ၁၃၅၃ ခု၊ ပြာသိုလဆုတ် ၃ ရက်နေ့ (၁၉၉၂ ဇန်နဝါရီလ ၂၂ ရက်)တွင် ဖူးမြော်ရသူတို့က ပြန်ပြော၍ သိရသည်မှာ အနံ့ထွက်ခြင်း၊ ရုပ်တော် ပျက်ခြင်းမရှိဟု သိရပါသည်။

ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်အား တစ်စုံတစ်ရာ ထုတ်နုတ်ထိုးသွင်း ပြုပြင်ခြင်း လုံးဝမရှိကြောင်း အခိုင်အမာသိရှိရပါသည်။ သတိပဋ္ဌာန်အဟုတ် အားထုတ်သောသူသည် အညှီဆုံးသေတောင်မှာ မပုပ်တတ်ဘူးဟု သိနားလည်သူတို့က ပြောဆို၍ မှတ်သားရပါသည်။

(ကျမ်းကိုး။ ပုသိမ်ဒေါ်လှလှသီ မှတ်တမ်းတင်ထားသဖြင့် သံပတ်ဆရာတော်ကြီး အကြောင်းကြားနာရပါသည်။ ၁၉၉၂ ခု၊ မတ်လထုတ် စာအုပ်ကလေးမှာ တန်ဖိုး ကျပ် ၂၀ မျှသာဖြစ်သော်လည်း အဖိုးမဖြတ်နိုင်ကြောင်း၊ နားလည်သူတို့က ဝန်ခံယူကြပါသည်။)

## သံပတ်ရွာဟူသည် အဘယ်နည်း

ပုသိမ်အနောက်မြို့နယ်၊ ပုသိမ်တစ်ဖက်ကမ်းတွင် ယခု သံပတ်ကုန်းရှိရာမြေအရပ်ကို ရှင်းလင်းခုတ်ထွင်ကြရာ ဘုရားငုတ်တိုအပြိုအပျက်တစ်ဆူ ပေါ်ထွက်လာတော်မူသည်။ ယခု သံပတ်ဆရာတော်၏ အထက်ဆရာတော်တို့ လက်ထက်မှ ဖြစ်သဖြင့် သက္ကရာဇ် အတိအကျမရသေး၍ ဖော်မပြလိုက်ပါ။

တောဖုံးလွှမ်းခဲ့သော စေတီတော်ကြီးတွင် သံချေးအထပ်ထပ်တက်ပြီး လက်တစ်ဝါးခန့် သံပြားကြီးများဖြင့် ပတ်သိုင်းထားသည်ကို ဖူးတွေ့ခဲ့ကြရသည်။ ဘုရားတွင် ရစ်ပတ်ထားသော ယင်းသံပြားကြီးမှာ သံချေးကြောင့် ပိုင်းပြတ်ကွာကျလျက် ပတ်ပတ်လည် ပတ်မိခြင်းမရှိပေ။ သံပြားများမှာလည်း ကျိုးပဲ့ပျက်စီးလျက်ရှိခဲ့သည်။ ဆရာတော်နှင့် ရွာသူရွာသားများက ယင်းစေတီတော်ကြီးကို မူလအတိုင်း



သံပြားအကောင်းဖြင့် ပြန်ပတ်ပြီး သပ္ပာယ်အောင် ပြန်လည်တည်ထားကိုးကွယ်ခဲ့ကြသည်။

ထိုကဲ့သို့ သံပြားပတ်ထားသော စေတီဘုရားကို အစွဲပြု၍ သံပတ်ရွာ၊ သံပတ်ကျောင်း၊ သံပတ်ဆရာတော်ဟူ၍ ထွင်ခဲ့ခြင်းဖြစ်ပေသည်။

စေတီတော်ကြီးကို နောက်နောင် အရှည်တည်တံ့ ခိုင်ခန့်စိမ့်သောငှာ သံပြားကြီးဖြင့် ခေတ်အဆက်ဆက် ပတ်ငုံ၍ တည်ထားကြသည်ကို အစွဲပြုလျက် သံပတ်ဘုရား၊ သံပတ်ဘုရားဟူ၍ သဒ္ဓါကြည်ညို ခေါ်ဝေါ်ကြရာမှ သံပတ်ဆရာတော်ဟူ၍လည်းကောင်း၊ သံပတ်ရွာဟူ၍လည်းကောင်း ဖြစ်လာရပေသည်။

ယခင်ခေတ် သတ်ပုံရေးထုံးအရ သံပါတ်ရွာဟူ၍ 'ပ'ကို ရေးချပြီး 'တ' သတ်၍ 'ပါတ်'ကြသည်။ ထိုစဉ်က ပတ်ဝန်းကျင်၊ ပတ်သက်၊ ပတ်မြှောင်၊ ပတ်လည်၊ ပတ်ကုံးစသည် ရေးထုံးများကို အများအားဖြင့် 'ပ'ကို ရေးချ 'တ'သတ်ဖြင့် ပါတ်ဝန်းကျင်၊ ပါတ်သက်၊ ပါတ်ကုံးစသဖြင့် ရေးထုံးပြုကြသဖြင့် ယခုတိုင် သံပါတ်ရွာဟူ၍ပင် ရေးဆဲရေးမြဲဖြစ်ပါသည်။ သတ်ပုံမှန်အရမူ သံပတ်ရွာသာ ဖြစ်ပါသည်။ ပတွင် ရေးချမပါပါဟု ပုသိမ်ဒေါ်လှလှသီက အဆိုပြုထားပါသည်။

(ကျမ်းကိုး၊ ပုသိမ်လှလှသီ၊ အသိမရပ်ရေး သတိသံပတ်ပေးနေသည့် သံပတ်ဆရာတော်ကြီး ဘဒ္ဒန္တအာစိဏ္ဏ ထေရုပ္ပတ္တိအကျဉ်းနှင့် တရားမေ့အလင်း သံပတ်ဆရာတော်၊ ပထမအကြိမ်၊ ၁၉၉၂ ခု၊ မတ်လ တန်ဖိုး ၂၀ ကျပ်၊ သိဒ္ဓိမြိုင် ပုံနှိပ်တိုက်၊ စာ ၄၂-၄၃)

ယခုအခါ သံပတ်ရွာသည် ဧရာဝတီတိုင်းဒေသကြီးတွင်သာမက ရန်ကုန်၊ မန္တလေး၊ ထက်အောက်ကျေညာ ကျော်ကြားသော သတင်းဝေလျက်ရှိပေသည်။ ပုသိမ်တစ်ဖက်ကမ်းရှိ သံပတ်ရွာ၊ သံပတ်ရွာ ဟူ၍ အုတ်အော်သောင်းတင်း သွားလာနေကြခြင်းမှာ ဤသံပတ်ဆရာတော်ဘုရားကြီး ဦးအာစိဏ္ဏ၏ ဘုန်း တန်ခိုးတော်ကြောင့်ဖြစ်သည်ကိုမူ မည်သူမျှ ငြင်း၍ရမည်မဟုတ်ပေ။

ဘုန်းတန်ခိုးရှင် သံပတ်ဆရာတော်ဘုရားကြီးသည် မြင်မြင်သမျှကိုလည်း မေတ္တာကြီးစွာ ထားတော်မူသည်။ လယ်ယာအလုပ်ဖြင့် အေးအေးလူလူ ရိုးရိုးသားသား လုပ်ကိုင်စားသောက်နေသော သံပတ်ရွာသူ ရွာသားများပေါ်တွင်လည်း ကရုဏာကြီးစွာ အောင်ဗောဓိကုန်း ရွာနီးချုပ်စပ် စသည့် ရွာသူရွာသားများအားလုံးမှာ ဆရာတော်ဘုရား၏ မေတ္တာရေစင်တွင် အကြည်အလင် အချမ်းအသာရှိလာကြပြီဖြစ်ပေသည်။

သံပတ်ရွာသို့ ဘုရားချောင်းမှ ဝင်လာရသည်။

ယင်းဘုရားချောင်းမှ သံပတ်ရွာသို့ လှမ်းဝင်လာသော် ဘုရားချောင်းတစ်လျှောက်တွင် မြောက်မြားစွာသော ဘုရားပြို၊ ဘုရားပျက်၊ ဘုရားငုတ်တိုများကို ဖူးတွေ့ကြရပေမည်။ ရှေးနှစ်ပေါင်းများစွာက တည်ထားသော ဘုရားများဖြစ်သည်ဟု ဆိုကြသည်။ အချို့လည်း နောက်ပိုင်းရသေ့သူတော်များ ဖော်ထုတ်ပြုပြင်သည်လည်းရှိ မပြုပြင်သည်လည်းရှိပါသည်။ သံပတ်ရွာ လွန်သည်အထိ ဘုရားငုတ်တိုများရှိသည်ဟုဆိုသည်။

သံပြားကြီးဖြင့် ရစ်ပတ်တည်ထားသည်ကို အစွဲပြု၍ သံပတ်ဘုရားဟုတွင်သော သံပတ်ဘုရားကြီး၏ အုတ်များမှာ ကုန်းဘောင်ခေတ်အုတ်များဟု ခန့်မှန်းကြရသည်။ အုတ်ချပ်ကြီးများမှာ အလျားတစ်တောင်၊ အနံတစ်ထွာရှိ အုတ်ချပ်ကြီးများဖြင့် တည်ထားကိုးကွယ်ခဲ့ကြခြင်းဖြစ်ပေသည်။



သံပတ်ကုန်း လေးကုန်းတွင် ယခု သံပတ်ဘုရားကြီးမှာသာမက သံပတ်စေတီကြီး၏ တောင်ယွန်းယွန်း၊ အနောက်ယွန်းယွန်းရှိ ပေါ်တော်မူစေတီတော်ကြီးတွင်လည်းကောင်း၊ ဤကဲ့သို့သော တောင်ပြည့်အုတ်ကြီးများကို တွေ့ရသည် ဆိုကြသည်။

ဘုရားချောင်းကို အောင်ဗောဓိချောင်းဟူ၍လည်းခေါ်ကြသည်။ ဘုရားချောင်းရွာထိပ် ကူးတို့ဆိပ်ကို အောင်ဗောဓိကူးတို့ဆိပ်ဟူ၍လည်း ခေါ်ကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၃-၄၄ )

## သံပတ်ဆရာတော်ဟူသည် အဘယ်နည်း

၁၉၀၆ ဧရာဝတီတိုင်းဒေသကြီး ပုသိမ်အနောက်ပိုင်း ပုသိမ်တစ်ဖက်ကမ်း အုတ်ဖိုရွာနေ လယ်သမားကြီး ခမည်းတော် ဦးစံလင်းနှင့် မယ်တော် ဒေါ်ရွှေခတို့မှ အေဒီ ၁၉၀၆ နိုင်ဝင်ဘာလ၊ ၂၅ ရက်၊ တနင်္ဂနွေနေ့ (၁၂၆၈ ခုနှစ်) နတ်တော်လဆန်း(၁၁)ရက်နေ့ တွင် အုတ်ဖိုရွာတွင် မီးရှူးသန့်စင် ဖွားမြင်တော်မူသည်။ လယ်သမားကြီးဦးစံလင်းနှင့် ဇနီးဒေါ်ရွှေခတို့မှ သားသမီးခြောက်ယောက် ဖွားမြင်ခဲ့ရာတွင် (၁) မမေ့၊ (၂) မောင်ရှိန်၊ (၃) မောင်စိန်၊ (၄) မငွေမြိုင်၊ (၅) မငွေဆိုင်၊ (၆) မောင်ထွန်းအောင်ဟူ၍ ဖြစ်ကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၄)

ဆရာတော်မှာ ဒုတိယ သားမြတ်ရတနာ ဖြစ်ပေသည်၊ ငယ်နာမည်က မောင်ရှိန်အမည်ကို ဆွေမျိုးညာတကာတို့က ခေါ်ဝေါ်လေ့မရှိကြ၊ ပညတ်သွားရာ ဓာတ်သက်ပါဆိုသလို မောင်ရွှေထူးဟူသော အမည်သာ အမည်တွင်လျက်ရှိပေသည်၊

သံပတ်ဆရာတော်သည် ငယ်မည် မောင်ရွှေထူး တွင်ရခြင်း အကြောင်းအရင်းမှာ ရှင်းသည်၊ နုစဉ်အခါကပင် ကျန်သားချင်းငါးဦးနှင့်မတူ အခြားကလေးများနှင့်လည်းမတူဘဲ တစ်မူထူးခြားခဲ့သည်၊ ကျေးဇူးကြီး မိဘများအပေါ် ကျန်သားသမီးများထက် ပိုမို၍ ရိုသေကိုင်းရှိုင်း လုပ်ကျွေးပြုစုလျက်ရှိသည်၊

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၅)

နေ့စဉ် နံနက်စောစောထ၍ ဘုရားကန်တော့လေ့ရှိသည်၊ လူတိုင်းနှင့် သင့်တင့်စွာနေသည်၊ စကားအလွန်နည်း၍ သည်းညည်းခံစိတ်ရှိလှသည်၊

၁၉၁၉ ဆရာတော်လောင်းလျာ မောင်ရွှေထူးခေါ် မောင်ရှိန် (၁၃)နှစ်သားအရွယ်တွင် မယ်တော်ကွယ်လွန်ခဲ့သည်၊ ဆရာတော်လောင်းလျာသည် ညီအထွေးဆုံး နို့စို့ကလေး မောင်ထွန်းအောင်ကို ဂရုဓမ္မဖြင့် ပြုစုနေရပေသည်။ မိသားစုအားလုံး လယ်ယာလုပ်ငန်းခွင်ဝင်ချိန်တွင် ဆရာတော်လောင်းလျာ ရွှေထူးမှာ တစ်မိသားစုလုံးစားသုံးရန် ထမင်းဟင်း ချက်ပြုတ်ပေးရသည်၊ ထိုနှစ်သည် ၁၉၁၉ ခုနှစ်ဖြစ်သည်၊

ချက်ပြုတ်ပေးရသည် ဆိုသော်ငြား လူမှုရေးကိစ္စများတွင် စိတ်ပါဝင်စားမှုမရှိပေ။ ညီများက ငါးရှာ၊ ဖါးရိုက်ပြုလျှင်လည်း မနှစ်မြို့ပေ၊ ချက်ပြုတ်ရန်ပေးလာသော ငါး၊ ဖားတို့တွင် အရှင်ပါလာပါက အားလုံးလွတ်ရာသို့လွှတ်၍ ဇီဝိတဒါနပြုသည်ချည်းဖြစ်သည်၊ မိသားစုမှ ငါးရှာ၊ ဖားရိုက် ကြုံကြိုက်ပါကလည်း "ဟေး. . . ရွှေ. . . ငါ့. . . ငါး. . . ငါ့. . . ဖား. . . ပြေးသွား"စသည့် အသံပေးခြောက်လှန့်လွှတ်



သဖြင့် ရွှေထူးရောက်လာလျှင် ငါးဖားရှာမရတော့ဟူ၍ ဒေါ်ငွေစိန်၏ခင်ပွန်း သူကြီးဦးစစ်မောင်မှ ပြောပြသိရှိရပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၄၅)

ဆရာတော်လောင်းလျာသည် ချစ်လှစွာသော ကျေးဇူးရှင်မိခင် ကွယ်လွန်ပြီးချိန်တွင် မူလရှိရင်းစွဲ လောကီငြီးငွေ့ခလေ့များပိုပွားလာသည်။ သတ္တဝါများအပေါ် မေတ္တာပိုများလာသည်။ စကားနည်း သည်ထက်နည်းလာသည်။ လူ့ဘဝတွင် မပျော်တော့ဟူ၍ ဆိုပါသည်။

သတ္တဝါများအပေါ် ကရုဏာကြီးမားခြင်း၊ မိဘကျေးဇူးအထူးသိတတ် သားကောင်းသားမြတ် ဖြစ်ခြင်း၊ ငယ်စဉ်ကပင် ထူးထူးခြားခြား ဗုဒ္ဓါနုဿတိအစဉ်ပွားခြင်း၊ စေ့စပ်သေချာခြင်း၊ မေတ္တာပွား တတ်ခြင်း၊ သည်းညည်းခံစိတ်ရှည်ခြင်း၊ ကံငါးပါးကို ခါးပတ်ဝတ်ပုဆိုးသို့ မြဲမြံခြင်း၊ အရွယ်နှင့်မလိုက် သိက္ခာရှိရှိ သမာဓိတည်ကြည်နေတတ်သည်ကို အကြောင်းပြု၍ သံပတ်ဆရာတော်လောင်းလျာ၊ မောင်ရှိန်ကို အများတကာက ရွှေထူးရွှေထူးဟူ၍ ခေါ်ဝေါ်အမည်တွင်ခဲ့ခြင်း ဖြစ်ပေသည်ဟု သိရပါ သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၆)

၁၉၂၀ မောင်ရွှေထူးအသက် ၁၄ နှစ်အကျော်အရွယ်တွင် အုတ်ဖိုရွာနှင့် ဆယ်မိုင် ခန့်ဝေးသော သံပတ်ရွာသို့ ရွှေထူးတစ်ယောက်တည်း ရောက်လာသည်။ အိမ်မှ တိတ်တဆိတ်ရောက်လာပြီး သံပတ်ကျောင်းဆရာတော် ဦးဝံသအထံတော်တွင် ကိုရင် ဝတ်၊ သင်္ကန်းစည်းလိုကြောင်းလျှောက်ထားသည်။ ခမည်းတော်ဦးစံလင်းလိုက်လာ၍ သင်္ကန်းစည်းပေးခဲ့ရတော့သည်။ ထိုနှစ်သည် ၁၉၂၀ ခုနှစ်ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၆)

၁၉၃၃ သင်္ကန်းဝတ်ဖြင့် ပျော်ပိုက်နေစဉ်တွင် ကျန်းမာရေးမကောင်းသဖြင့် ခမည်း တော်နှင့်ဆွေမျိုးများ၏အလိုကျ လူထွက်ခဲ့ရပြီးမှ တစ်ဖန် အသက်(၂၇)နှစ်အရွယ်၊ အေဒီ ၁၉၃၃ ခု၊ မတ်လ ၃ ရက်၊ သောကြာနေ့ (၁၂၉၄)ခု၊ တပေါင်းလဆန်း(၈)ရက် နေ့တွင်မှ ပြန်လည်၍ သာသနာ့ဘောင်ဝင်တော်မူခဲ့သည်မှာ အသက်ထက်ဆုံးပင် တည်း။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၆)

တစ်ဝါကျော် ကိုရင်ဝတ်စဉ်ကလည်း သာမဏေသိက္ခာပုဒ်နှင့်အညီ တည်တည်ကြည်ကြည် နေတော်မူသည်ဟု သိမှီသူတို့က ပြောဆိုကြပါသည်။ သံပတ်ဆရာတော်ကြီး ဦးဝံသမှာ ယခုသံပတ် ဆရာတော် ဦးအာစိဏ္ဏ၏ ရဟန်းဥပဇ္ဈာယ်ဆရာတော်ဖြစ်တော်မူသည်။

ရဟန်းဘောင်တွင် ရှင်အာစိဏ္ဏအား ဆရာတော်ကြီး ဦးဝံသမှ ဝတ်နည်းသိက္ခာပုဒ်၊ ပရိယတ်၊ ပရိပတ်များ သင်ကြားပို့ချပေးခဲ့သည်။ ဦးအာစိဏ္ဏသည် သဒ္ဒါ သင်္ဂြိုဟ်၊ ဘိက္ခုပါတိမောက်တို့ကိုလည်း သင်ယူတော်မူခဲ့သည်။

ရဟန်းဖြစ်တော်မူစမှစ၍ တရားဘာဝနာတွင် လှိုက်လှိုက်လှဲလှဲ စိတ်ပါဝင်စားတော်မူသည်။ နေ့စဉ် နံနက်(၄)နာရီ အိပ်ရာထသည်။ ဘုရားဝတ်တက်သည်။ ပြီး အရုဏ်ဆွမ်းဘုဉ်းပေးပြီးလျှင် ပြန်၍ ဘုရားရှိခိုးပြီး ပရိကံပြု၍ ကမ္မဋ္ဌာန်းထိုင်သည်။ နေ့ပိုင်းတွင် စာပေသင်ယူသည်။ ပြီးလျှင် ညပိုင်းတွင် ည(၇)နာရီမှ (၁၀)နာရီတိုင် တရားထိုင်တော်မူသည်။ ငယ်စဉ်မှာပင် တစ်နေ့နှစ်ကြိမ်



တရားအားထုတ်လေ့ရှိသည်။ တစ်ဖန် ဆရာတော်ဦးဝံသမှ နေ့ဆွမ်းစားပြီးနောက်တစ်ချိန် မွန်းလွဲနှစ်နာရီတစ်ချိန်၊ နှစ်ချိန် ထပ်မံဖြည့်စွက်၍ ကမ္မဋ္ဌာန်းတရား ပွားများစေသဖြင့် တစ်နေ့လေးကြိမ်လေးကြိမ် တရားအားထုတ်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၆-၄၇)

ငယ်စဉ်ကတည်းက ချူချာခဲ့ပြီး၊ ချူချာမြဲချူချာလျက်ရှိသော ဆရာတော်သည် တရားဓမ္မ၏ရသကို သဘောကျလှသဖြင့် ချူချူချာချာရောဂါဟူသမျှကို တရားထိုင်ခြင်းဖြင့် ကုသပျောက်ကင်းတော်မူပေသည်။

"တစ်နေ့လေးကြိမ်လေးကြိမ်တရားထိုင်ရတာ ငယ်ငယ်ကပေါ့၊ ဆရာတော်ဦးဝံသက ထိုင်ခိုင်းတာ၊ ဆရာတော်ကို တစိမ့်စိမ့်ကျေးဇူးကြီးတင်နေတာ. . တရားထိုင်ရတာကောင်းလွန်းလို့ ယုံကြည်လွန်းလို့ မြင်းသရိုက်ရောဂါကြောင့် ဆေးတွေစုံအောင် စားနေခဲ့ရတာတွေ၊ အဲဒါ ဆေးတွေ အကုန်စွန့်ပစ်ပြီး တရားချည်းဖိထိုင်တာ ရောဂါပျောက်တာပဲ. . . တစ်ခါတည်း ကျန်းမာတာပဲ"ဟူ၍ မိန့်ကြားတော်မူဖူးပါသည်ဟု စာရေးဆရာမကြီး ဒေါ်လှလှသိကဆိုခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၄၇)

ဟိုးဟိုးကျော်နေသော သတင်းတစ်ရပ်ကို ကြားရသည်မှာ ဤသို့ဖြစ်ပါသည်။ ရဟန္တာတစ်ပါး ကောင်းကင်ကနေ ဈာန်နဲ့ကြွသွားတာကို လူအတော်များများ ဖူးမြင်ကြရတာ ရဟန်းတော်ဟာ ပုသိမ်တကောင်းဘုရားကြီးဘက်ကနေပြီး ရွှေစည်းခုံဘုရားဘက်သို့ ကြွတော်မူတာ သေသေချာချာ လိုက်ဖူးသူတချို့နဲ့ ကလေးတွေကတော့ သံပတ်ကုန်းရွာဘက်ကို ရဟန္တာပြန်ကြွသွားတာတဲ့၊ ဒါဆို သံပတ်ရွာဆရာတော်ပဲ သေချာသည်ဟု ဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၅၀)

၁၉၉၁ ၁၃၅၃ ခု တန်ဆောင်မုန်းလပြည့်ကျော် ၃ ရက် (၁၉၉၁ နိုဝင်ဘာလ ၂၄ ရက်)တနင်္ဂနွေနေ့တွင်မူ သံပတ်ဆရာတော်ဘုရားကြီးသည် မိမိသီတင်းသုံးရာ သံပတ်ကျောင်းဝင်းအတွင်း မူလသံပတ် ဘုရားကြီးဘေးတွင် ကိုးနဝင်းစေတီတော် နှစ်ဆူကို ကိုယ်တော်တိုင် ပန္နက်ရိုက်တည်ထားတော်မူပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၅၀)

ဆရာတော်ဦးဝံသသည် သံပတ်ကျောင်းတွင် သီတင်းသုံး၍ ဝါအစိတ်ရက အခြားကျောင်းတစ်ကျောင်းပြောင်း၍ သာသနာပြုမည်ဟု မိန့်ဖူးသည်။ ထိုဆန္ဒအရ ဦးဝံသ သံပတ်ကျောင်းတွင် သီတင်းသုံး၍ ဝါအစိတ်အရတွင် ရွှေလုံးကုန်း၊ စက်ကုန်းသို့ ကြွရောက်သာသနာပြုတော်မူသည်။ တစ်ဖန် ပုသိမ်စက်တော်ရာ ပန်းတင်ကုန်းတို့တွင် လှည့်၍ သာသာနာပြုနေစဉ် ဦးအာစိဏ္ဏအား ကျောင်းကြီးတွင် စိတ်ချလက်ချ ထားရစ်တော်မူသည်။

ဦးအာစိဏ္ဏသည် ဆရာတော်ဦးဝံသစကားကို မြေဝယ်မကျ နားထောင်လေ့ရှိရကား ဦးဝံသသည် ပုသိမ် ပန်းတင်ကုန်းတွင်ပင် အောင်မြင်စွာ ဆက်၍သာသနာပြုလျက်နေခဲ့ပေသည်။ ဆယ်နှစ်ခန့်ကြာမှ ဆရာတော်ဦးဝံသက သံပတ်ကျောင်းကထိန်ပွဲတွင် ကျောင်းအပ်ဖို့ မေ့နေလို့ဟု မိန့်ကြားကာ ဦးအာစိဏ္ဏအား ဆရာတော်အများ အစုံအညီဖြင့် ကျောင်းအပ်တော်မူပေသည်။



ဘယ်သက်နံးမှ ဘယ်ဆွမ်းမှဟူ၍မရှိ တစ်စိုးတစ်မျှ ဟိတ်ဟန်မရှိ၊ ပကတိ ရိုးသားမာန်ချမှုကြောင့် ရဟန်းရှင်လူအများက လွတ်ကြည်ညိုကြသည်။ ရိုကျိုးကြသည်။

ဆရာတော်သည် အနီးအနားရွာများမှ တောင်သူလယ်သမား ဆင်းရဲသူ ဆင်းရဲသားများအား ရင်ဝယ်သားကဲ့သို့ မေတ္တာထားတော်မူသည်။ မရှိရှိရာ ကျွေးမွေးတော်မူသည်။ ပျံလွန်တော်မူပြီးနောက် အထိပင် အလှူနံတရာကျယ်ဝန်းစွာသော ကျောင်းကြီးမဆန့်အောင်ပင် နေ့စဉ်ကျွေးမွေးမပျက် ပြုရစ်ကြသည်။ ဘယ်ဘက်မှရ၏။ ညာဘက်မှလှူ၏။ ညာဘက်မှရ၏။ ဘယ်ဘက်မှပြန်လှူချည်းဖြစ်၏။ စွန့်ကြဲပေးကမ်းသည်ချည်းဖြစ်၏။ အမြဲတစေ ပေးဝေနေသည်မှာမူ မေတ္တာတော်ဖြစ်၏။ မေတ္တာရှင်ကြီးဖြစ်၏။

ကိစ္စတွေဖြတ်တော့မယ်ဟူ၍ ဆရာတော်က တိုတိုမိန့်တော်မူကာ မိမိလက်တော်ရှိ အလှူတော်ငွေများဖြင့် ဘုရားတည်တော်မူသည်။ ပြီးစီးအောင် တည်တော်မူသည်။

မူလသံပတ်ဆရာတော်ကြီး၏ ဉာဏ်တော်အမြင့်မှာ ၃၆ တောင်ပြည့်ဖြစ်ပေသည်။ ချုံနွယ်ပိတ်ပေါင်းများ ခုတ်ထွင်ရှင်းလင်းရာမှ ဖူးတွေ့ကြရသော ဘုရားငုတ်တို အပြိုအပျက်ကို အသစ်ပြုပြင်ပူဇော်ခဲ့ကြခြင်းဖြစ်ပေသည်။ စစ္စာကတည်းက လက်တစ်ဝါး သံပြားကြီးဝန်း၍ ခါးပတ်ပတ်ထားသောဘုရားဖြစ်၍ သံပတ်ဘုရားဟုတွင်သည်။

မူလ ပထမ သံပြားကြီးမှာ နှစ်ကြာညောင်းလွန်း၍ ပွန်းပဲ့ပြတ်ထွက် သံချေးတက်နေသဖြင့် အသစ်ပြုပြင်တည်ထားသော စေတီတော်ကြီးတွင်လည်း ထပ်မံ သံပြားကြီးပတ်၍ တည်ထားကိုးကွယ်ကြသည်။ နောင်လာနောင်သားတို့ အစွန့်ရှည်ကြာစွာ အရှည်ဖူးမြင်နိုင်ရန်အလို့ငှာ သံခါးပတ်နှင့် သံပတ်စေတီကို တည်ထားကိုးကွယ်ကြခြင်းပင်။

သံပတ်ကြီးဆရာတော်ကြီးသည် ယခု သက္ကရာဇ် ၁၃၅၃ ခုနှစ်ကို လက်ချိုးရေတွက်တိုင်း၊ သီတင်းကျွတ်၊ တန်ဆောင်မုန်း၊ နတ်တော်. . . . . . နတ်တော်. . . . . . နတ်တော်မှအထက်သို့ လက်ဆက်မချိုးတော့ပေ။

ကိစ္စတွေဖြတ်တော့မည်ဟူသည့် ဆရာတော်ကြီးသည် မူလသံပတ်ဘုရားကြီး၏ မြောက်ဘက်တွင် ကိုးတောင်ပြည့်စေတီတော်တစ်ဆူ တည်တော်မူ၏။ ဘုရားကြီး၏ တောင်ဘက်တွင် ကိုးတောင်ပြည့် စေတီတစ်ဆူတည်ထားတော်မူ၏။

မြောက်ဘက် ကိုးတောင်ပြည့်စေတီမှာ ဆရာတော်ကြီး ဦးဝံသအတွက် ကောင်းမှုရည်စူး၍လည်းကောင်း၊ တောင်ဘက်စေတီတော်မှာ မိမိကိုယ်တော်(ဆရာတော်ဦးအာစိဏ္ဏ)မှ တပည့်များကောင်းမှုအဖြစ်လည်းကောင်း၊ တည်ထားတော်မူခြင်းဖြစ်သည်။ သံပတ်ဆရာတော် ဦးအာစိဏ္ဏအား ရဟန်းရှင်လူများက လှူဒါန်းထားသည့် ဝတ္တုငွေမှ တစ်သောင်းတစ်ထောင်ကျပ်ဖြင့် မ,တည် တည်ထားတော်မူသည်။

၁၉၉၁ ၁၃၅၃ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၃ ရက် (၁၉၉၁ နိုဝင်ဘာလ ၂၄ ရက်)တနင်္ဂနွေ နေ့ နံနက် ၈ နာရီအချိန်တွင် ပန္နက်ရိုက်တော်မူသည်။ ဘုရားချောင်းရွာ၊ ဆရာကြီးဦးတင်အေးကြီးမှူး၍ တနင်္ဂနွေနေ့မွန်းတည့်(၁၂)နာရီအချိန်တွင် ရွှေအုတ်၊ ငွေအုတ်၊ ပတ္တမြားအုတ်များကို ဆရာတော်ကြီးကိုယ်တော်တိုင် အုတ်မြစ်ချတော်မူပါသည်။ 'အောင်သိဒ္ဓိ ကိုးနဝင်းသုခ'စေတီတော် နှစ်ဆူဖြစ်ပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅၀)

၁၉၉၁ စေတီတော်ပြီးစီး၍ ထီးတော်မရောက်မီပင် ဆရာတော်ကြီးမကျန်းမာသဖြင့်



ဦးအာစိဏ္ဏသည် ကျောင်းကြီးအပေါ်ဝယ် တောင်ဘက်ခန်းတွင် (ကျောင်းမအပ်မီက)သီတင်းသုံးနေတော်မူရာမှ ကျောင်းကြီးအောက်ထပ်သို့ဆင်း၍ သီတင်းသုံးတော်မူပေသည်။ ကျောင်းကြီးအပေါ်ထပ်တွင် ရှေးဘုရားရုပ်ပွားတော်ဖြင့် ဘုရားဆောင်သပ္ပာယ်စွာရှိသည်။ ကျောင်းအောက်ထပ် ဘုရားစင်တွင် ဘုရားဝတ်ပြုသော် သံပတ်စေတီကြီးကိုလည်း လှမ်း၍ ဖူးမြော်ကြည်ညိုရပေသည်။

သံပတ်ကျောင်း၏ ဆရာတော်အဖြစ် ဦးအာစိဏ္ဏ သီတင်းသုံးရသောအခါတွင်လည်း ဆရာတော်သည် တရားဓမ္မကျင့်ကြံချီးမြှင့်ရေးနှင့် သာသနာ့ကိစ္စမှအပ စိတ်ဝင်စားမှုမရှိပေ။

အဝင့်အဝါမရှိ။ ဟိတ်ဟန်မရှိ။ ပကတိမာန်မာန နှိမ့်ချစွာ လောဘ၊ ဒေါသ၊ မောဟ စိုးစဉ်းမျှ ရှိတော်မမူပေ။ အာသာရမ္မက်မရှိ။ ကျောင်းတွင် ကန်စွန်းရွက်နှင့် ဆန်ကို ပြုတ်ကျို၍ ဘုဉ်းပေးပြီး တရားကျင့်တော်မူပေသည်ဟု သိရပါသည်။

အသက်ရှစ်ဆယ်ကျော် ဘကြီးဦးဖိုးလူက- 'စိတ်က ရသာရုံမှာမရှိဘူး၊ တရားမှာပဲ၊ တစ်ခါတစ်ခါ ရရာ ကနဖော့၊ ကန်စွန်းရွက်ဆန်ပြုတ်ချဲ့ကြီးကို ဘုဉ်းပေးတာ၊ သူ့လို တို့မစားနိုင်ပါဘူး၊ လုံးလုံးမစားနိုင်ဘူး' ဟူ၍ ပြောပြပေသည်။ အဘဦးဖိုးလူက ဆက်လက်ပြောကြား၍ သိရှိရသည်မှာ -

'ကျောင်းထွက် သစ်သီး၊ ဝါး၊ ထင်း စတာရောင်းချပြီး ကျောင်းစရိတ်ပြုရတာ၊ တစ်နှစ်လုံးအတွက် ကျောင်းစရိတ် ခြောက်ရာ ရှစ်ရာလောက်ရရင် ဘာကိုမှ ဆက်မရောင်းရတော့ဘူး၊ ဆရာတော်ဦးအာစိဏ္ဏက သံဃိကပစ္စည်းဆိုတာ အားလုံးသံဃာနဲ့ဆိုင်တာ၊ ရေစက်ချထားတာ၊ လိုတာထက်ပိုမသုံးရဘူး၊ လိုသမျှလေး ပြည့်စုံရုံလေး ကျောင်းတိုက် ထိုက်သမျှလေးပဲ သုံးကောင်းတာလို့ ဆရာတော်က တဖွဖွပြောတာ' ဟူ၍ ဖြစ်ပါသည်။

အဘဦးဖိုးလူတို့ သက်ကြီးဝါကြီးများကမူ ဆရာတော် ဦးအာစိဏ္ဏ ရသာတဏှာမရှိဘဲ ဇာမချဲ့ပုံ၊ သည်းခံစိတ်ကြီးမားပုံ သီလစောင့်ထိန်းပုံများ ပြောမကုန်ကြပေ။

ဆန်နှင့်ကနဖော့၊ ဆန်နှင့်ကန်စွန်းရွက်ပြုတ်၊ ဘာရရ၊ ရရာကိုပြုတ်၍ ဘုဉ်းပေးရသည့်အခါမှာလည်း ငြိုငြင်ခြင်းရှိတော်မမူပေ။

တစ်ရွာနှင့်တစ်ရွာ အလှမ်းကွာ၍ လမ်းတွင် အခက်အခဲဖြစ်နေသော ဆွမ်းခံချိန်တွင်လည်း လမ်းခုလတ် လမ်းတွင်ဘုဉ်းပေးရခြင်းမပြု၊ ရေငတ်လျှင်သော်မှ ရေတောင်းမသောက်၊ ငြိမ်းငြိမ်းခြုံခြုံ သည်းခံစိတ်ကြီးမားလှကြောင်း ပြောပြကြရသည်။ ဆေးဝါးမှအစ ဘာကုန်၍ လှူပါဟု ဘယ်ခါမပြု၊ အလှူမခံ။ ရသမျှရောင့်ရဲသည်။ ခံစားမှုတဏှာ အာသာရမက်မရှိ၊ သီလစောင့်ထိန်းမှု ကြီးမားလှသည်ဟု သိသူတို့က ပြောကြပါသည်။

ကျောင်းဝင်းအတွင်းမှ ရသင့်ရထိုက်သော ဆွမ်းကွမ်းစရိတ်မှာ ဘုရားဝေယျာဝစ္စ ပန်းမန်ဆီမီး၊ အမွှေးတိုင်ပူဇော်ခြင်း ဆွမ်းကပ်ခြင်း၊ အာဂန္တုရဟန်းများ ဆွမ်းဝတ်၊ မလွှဲမရှောင်သာသော ဧည့်ဝတ် စောင့်ဝတ် စွန့်ကြဲမှုအတွက်သာ ရည်ရွယ်အသုံးပြုမြဲဖြစ်သည်။

ဆရာတော်၏ သီလဂုဏ်၊ သမာဓိဂုဏ်၊ တရားဓမ္မပညာဂုဏ်တို့ကြောင့် အားလုံးသတ္တဝါအပေါင်း၊ ချမ်းသာစေကြောင်းသာ အဓိက၊ မိမိကမူ ဆင်းရဲခံနေ၊ ဆင်းရဲခံစား၊ ဆင်းရဲခံဝတ်၊ ဘာကျောင်းမှ

(၁၉၉၁ ဒီဇင်ဘာလ ၁၃ ရက်)သောကြာနေ့ညနေတွင် ပုသိမ်မြို့ ဧရာဝတီတိုင်းဒေသကြီး သံဃာ့ဆေးရုံသို့ တင်ထားကုသနေရသည်။



(ကျမ်းကိုး။ ယင်းကျမ်း စာ ၅၂)

၁၉၉၁ ထီးတော်နှစ်ဆူသည် မန္တလေးမှ ရန်ကုန်၊ ရန်ကုန်မှပုသိမ်သို့ (၁၉၉၁ ခု၊ ဒီဇင်ဘာလ ၂၅ ရက်)နေ့ကမှ ရောက်ရှိပြီး ဆရာတော်အား ထိုထီးတော်နှစ်ဆူကို ဆေးရုံတွင်ပင် ဆက်ကပ်ကြရာ ဆရာတော်ကြီး ဦးအာစိဏ္ဏမှ လက်ထိလက်ရောက် သံပတ်အောင်သိဒ္ဓိ ကိုးနဝင်း သုခစေတီတော်နှစ်ဆူအား လှမ်းလင့်ဆက်ကပ် ပူဇော်တော်မူခဲ့ပေသည်။

၁၉၉၁ ယင်းသို့ စေတီတော်များ ဆက်ကပ်လှူဒါန်းတော်မူပြီး ရွှတ်ခြည်းပင် သက်တောင့်သက်သာ ရှိနေရာမှ နောက်တစ်နေ့နံနက် ၁၉၉၁ ခု ဒီဇင်ဘာလ ၁၆ ရက်၊ ၁၃၅၃ ခု နတ်တော်လဆန်း ၁၀ ရက် တနင်္လာနေ့နံနက် ၅ နာရီ ၄၅ မိနစ်အချိန်တွင် ပျံလွန်တော်မူပေသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၅၂)

၁၉၃၂-၁၉၉၁ ဤသို့ဖြင့်လျှင် ၁၂၉၄ ခု တပေါင်းလဆန်း ၈ ရက်နေ့ (၁၉၃၂ မတ်လ ၂၉ ရက်)အင်္ဂါနေ့တွင် ရဟန်းဘောင်သို့ ရောက်တော်မူပြီး ရဟန်းတို့ အကျင့်သိက္ခာ မြတ်တို့ဖြင့် မပြတ်သတိ ကပ်နေတော်မူပြီး သတ္တဝါများအားလည်း မေတ္တာတော် အထပ်ထပ်ဖြင့် အခါမလပ်မပြတ်သတိ သံပတ်ပေး နေတော်မူသော ကျေးဇူးကြီးရှင် ဦးအာစိဏ္ဏဆရာတော်ဘုရားသည် ၁၉၉၁ ဒီဇင်ဘာလ ၁၆ ရက်၊ (၁၃၅၃ ခု နတ်တော်လဆန်း ၁၀ ရက် တနင်္လာနေ့)နံနက် ၅ နာရီ ၄၅ မိနစ်တွင် ပုသိမ်မြို့ တိုင်းဆေးရုံကြီး၌ ပျံလွန်တော်မူပေသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၅၂)

ဆရာတော် လက်ဆစ်ချိုးရေတွက်တော်မူတိုင်း လက်ချိုးရပ်သွားတတ်သော နတ်တော်လတွင် ဆရာတော် ပျံလွန်တော်မူပေသည်။

(ကျမ်းကိုး။ ဤသည်ကား ပုသိမ်တစ်ခွင်တွင် ရဟန္တာဟု ကျော်ကြားခဲ့သော ပုဂ္ဂိုလ်ထူးကြီးအကြောင်းကို ပုသိမ်သား သာသနာ့အကျိုးဆောင် ပုသိမ် ဒေါ်လှလှသီထံမှ သိရသမျှ မှတ်စုထုတ်၍ တင်ပြထားခြင်းဖြစ်ပါသည်။)
(ကျမ်းကိုး။ ပုသိမ်ဒေါ်လှလှသီ မှတ်တမ်းတင်ထားသဖြင့် သံပတ်ဆရာတော်ကြီး အကြောင်း ကြားနာရပါသည်။ ၁၉၉၂ ခု၊ မတ်လထုတ် စာအုပ်ကလေးမှာ တန်ဖိုး ကျပ် ၂၀ မျှသာ ဖြစ်သော်လည်း အဖိုးမဖြတ်နိုင်ကြောင်း၊ နားလည်သူ တို့က ဂုဏ်ယူကြပါသည်။

မသိသူကျော်သွား သိသူဖော်စား ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး ပုသိမ်မြို့သံပတ်ဆရာတော် ဦးအာစိဏ္ဏ (၁) အချစ်ဂျာနယ်၊ အတွဲ ၄၊ အမှတ် ၅၂၊ ၂၇-၃-၂၀၀၆ တွင် ပါခဲ့ပြီးဖြစ်ပါသည်။ ပုသိမ်မြို့ သံပတ်ဆရာတော် ဦးအာစိဏ္ဏ (၂) အချစ်ဂျာနယ်၊ အတွဲ ၄၊ အမှတ် ၅၃၊ ၃-၄-၂၀၀၆ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

အုတ်ဖိုမြို့နယ် ဂုံညင်းတန်းရွာအနီး သရက်ပင်ကန်ရွာတွင် ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေးသော ရွှေဘုန်းပွင့်စံကျောင်း

# ဆရာတော် ဦးသီဟ

ခေအဒီ ၁၉၀၇ – ၁၉၆၉ ( ၁၂၆၉ –၁၃၃၁ )





ဆရာတော် ဦးသီဟအား ဖူးတွေ့လိုက်ရသူများက ရဟန္တာဖြစ်သည်ဟု ယနေ့တိုင် ပြောဆိုဆဲဖြစ်ကြောင်း ကြားသိရပါသည်။

၁၉၀၇ ဆရာတော်ကို အေဒီ ၁၉၀၇ ခု၊ အောက်တိုဘာ ၁၁ ရက်၊ သောကြာနေ့ (၁၂၆၉ ခု၊ သီတင်းကျွတ် လဆန်း ၅ ရက်နေ့)တွင် သရက်ပင်ကန်ရွာ၌ ဖွားမြင်ခဲ့ကြောင်း သိရပါသည်။

သရက်ပင်ကန်ရွာသည် အုတ်ဖိုမြို့နယ်တွင် ရှိ၏။ ဂုံညင်းတန်းရွာနှင့် နီးလေသည်။ ထိုရွာတွင် ရွှေဘုန်းပွင့်ကျောင်းတော်ရှိ၏။ ထိုကျောင်းတွင် ဆရာတော်၏ ရုပ်ကလာပ်ကို ယနေ့တိုင် ဖူးမြော်နိုင်သေးကြောင်း သိရပါသည်။

ဆရာတော်၏ အကြောင်းအရာမှာ များစွာမသိရပါ။ သို့သော်လည်း သိသမျှမှာ အလွန်ထူးခြား၍ ကြည်ညိုဖွယ်ရာဖြစ်ပါသည်။

ဆရာတော် ဦးသီဟတွင် တူမတော်သူ တစ်ဦးရှိ၏။ ထိုတူမတော်သည် နောင်သောအခါ သီလရှင်ကြီး ဒေါ်တေဇ ဟူ၍ ဖြစ်လာပါသည်။ ထိုသီလရှင်ကြီးသည် ရွှေဘုန်းပွင့်စံကျောင်းတွင် ၂၀၀၄ ခုနှစ်အထိ သီလရှင်ဘဝဖြင့် ရှိနေခဲ့ပါသည်။ ရဟန္တာဟုကျော်ကြားသော ဆရာတော်ကြီး ဦးသီဟ သက်တော်ထင်ရှားရှိစဉ်အခါက ထိုသီလရှင်ကြီးမှာ ထိုစဉ်က အသက်အရွယ် ၁၃ နှစ် ရှိပြီဟု ဆိုပါသည်။ ထိုသီလရှင်ကြီး၏ မျက်မြင် ပြောကြားချက်များမှာ မှတ်သားဖွယ်ရာများ ဖြစ်ပါသည်။

ဆရာတော် ဦးသီဟ ရဟန်းဘဝသို့ ရောက်ရှိပြီးနောက် အလှူပွဲတစ်ခုသို့ ကြွရောက်စဉ် ကာလက ဖြစ်ပွားခဲ့သော ဖြစ်ရပ်ဆန်းတစ်ခု ဖြစ်ပါသည်။

## ကျီးကန်းက ငှက်ပျောသီးမဟုတ် — ငွန်းချီ၍လာလှူခြင်းအထူးအဆန်း

ထိုစဉ်က ဆရာတော် ဦးသီဟသည် ရွာထဲရှိ အလှူပွဲတစ်ပွဲသို့ ကြွရောက်တော်မူခဲ့ကြောင်း သိရပါသည်။ ထိုစဉ်အခါက အလှူပွဲတွင် ဆရာတော်အား ဆွမ်းများ ကပ်လှူကြပါသည်။ ထိုသို့ ကပ်လှူကြရာတွင် ဆွမ်းကပ်သောအခါ ငွန်းတစ်ချောင်းမှ ပါမလာဟု ဆိုပါသည်။ ထိုအခါ ကျီးတစ်ကောင်သည် ငွန်း တစ်ချောင်းကို ကိုက်ချီ၍ ဆွမ်းပွဲသို့ ပျံသန်းလာပြီးလျှင် ဟင်းပွဲထဲသို့ ငွန်းကို လာ၍ထည့်ပေးခဲ့ကြောင်း မျက်မြင် တွေ့ခဲ့ရသည်ဟု ဆိုပါသည်။

(ကျမ်းကိုး၊ မောင်သောင်းဝင်း စစ်ကွင်း၊ ရွှေဘုန်းပွင့်က ဆရာတော် ဦးသီဟ၏ မပုပ်မသိုးသော ရုပ်ကလာပ်တော်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း ၂၀၀၄ ခုနှစ်၊ ဩဂုတ်လ အမှတ် ၂၁၇၊ စာ ၃၈)

ထိုစဉ်က ထိုသီလရှင် ဒေါ်တေဇမှာ အသက် ၁၃ နှစ်အရွယ်ရှိပြီ ဖြစ်ပါသည်။ ဆရာတော် ဦးသီဟနှင့် ဘကြီးတော်စပ်ပါသည်။ ထိုကြောင့်လည်း ကောင်းစွာ မှတ်မိနေသည်ဟုဆိုပါသည်။

## ဆရာတော်က အရင်ရောက်နေခြင်း အံ့ဖွယ်

ထိုအလှူပွဲမှာ ပြန်လာကြ၏။ ထိုနောက် ဘုန်းကြီးကျောင်းသို့ ရောက်ရှိသောအခါ ဆရာတော်ဦးသီဟမှာ ကျောင်းတွင် ကုလားထိုင်ပေါ်၌ ထိုင်လျက်ရှိကြောင်း တွေ့ရပါသည်ဟု သီလရှင်ကြီး ဒေါ်တေဇက ပြောကြားခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁)

## ရက်ကန်းစင်တောင် ဦးဩဘာသ ကြွရောက်လာခြင်း

ၚင်းအပြင် သီလရှင်ကြီး၏ ပြောပြချက်အရ သိရသည်မှာ ဆရာတော် ဦးသီဟ သက်တော်ထင်ရှားရှိစဉ်အခါက ရက်ကန်းစင်တောင် ဦးဩဘာသ ဆရာတော်ဘုရားကြီးကိုယ်တိုင် ၂ ကြိမ်တိုင်တိုင် ကြွရောက်လာသည်ကို မိမိကိုယ်တိုင်



ဖူးမြင်ခဲ့ရကြောင်း မိမိကိုယ်တိုင်လည်း ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးနှင့် စကားပြောဆိုခဲ့ဖူးကြောင်း ပြောပြ၍ သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀)

## အင်းတကော်မှာ အောင်စကြာ

၎င်းအပြင် သိရှိရသည်မှာ ဆရာတော် ဦးသီဟသည် အင်းတကော်တွင်လည်း စေတီတစ်ဆူတည်ခဲ့သေးကြောင်း ထိုစေတီမှာ အောင်စကြာ စေတီဖြစ်ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀)

## ရွှေလောင်းကြီးရွာမှာ ၁၀ နှစ်ကြာ

ထို့ကြောင့် ကျွန်ုပ်တို့သည် ဆရာတော် ဦးသီဟအကြောင်းကို အင်းတကော်တွင် ထပ်မံစုံစမ်းကြပြန်ပါသည်။ ထိုအခါ ထပ်မံ၍ သိရှိရသည်မှာ ဆရာတော် ဦးသီဟသည် ရွှေလောင်းကျေးရွာကြီးတွင်လည်း ၁၀ နှစ်ကြာမျှ သီတင်းသုံးခဲ့ဖူးကြောင်း သိရှိရပြန်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀)

ရွှေလောင်းကျေးရွာသည် ပဲခူးတိုင်းဒေသကြီး မင်းလှမြို့၏ အနောက်ဘက် မြစ်မခချောင်း ကမ်းနဖူးတွင် တည်ရှိသော ရွာကလေး တစ်ရွာဖြစ်ပါသည်။ ထိုရွာတွင် ရတနာပုံ ဘုန်းတော်ကြီးကျောင်းဟူ၍ ဘုန်းကြီး ကျောင်းတစ်ကျောင်းရှိပါသည်။ ထိုရွာတွင် ဆရာတော် ဦးသီဟသည် ၁၀ နှစ်ကြာအောင် နေခဲ့ဖူးသည်ဟု စုံစမ်းသိရှိရပါသည်။

## ရဟန္တာ ဦးသီဟ

ထိုကျောင်းတွင် ဦးသီဟအမည်ရှိသော ထူးထူးဆန်းဆန်း ဆရာတော် တစ်ပါး သီတင်းသုံးခဲ့ဖူးကြောင်းပြောဆိုပါသည်။ ထိုဆရာတော်မှ ရဟန္တာ ဦးသီဟဖြစ်ကြောင်း ယနေ့တိုင် ပြောဆိုနေကြဆဲဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀ )

ထိုရွာသားများ၏ ပြောပြချက်အရ အံ့ဖွယ်ဖြစ်ရပ်ဆန်းများကို ကြားသိရပါသည်။ ယခုအခါ အသက်အရွယ် အတော်ရင့်နေပြီးဖြစ်သော ရွာသူရွာသားအချို့သည် ထိုစဉ်ကာလက ဘုန်းကြီးကျောင်းသားအရွယ် လူမမယ်များသာ ဖြစ်ခဲ့ကြပါသည်။

ထိုအခါက ရဟန္တာဟု ကျော်ကြားသော ဆရာတော်ကြီး ဦးသီဟအား ဝတ်ကြီးဝတ်ငယ်ပြုစုကြပါသည်။ ဆရာတော်အား နှင်းနှိပ်ပေးပြီးသောအခါ ဆရာတော်က ဘာမုန့်စားကြမလဲဟု မေးလေ့ရှိကြောင်း ပြောကြားကြပါသည်။ ထိုအခါ မိမိတို့မှာ မုန့်ခဏခဏ စားရသဖြင့် ယခုတစ်ခေါက်တော့ အလွန်ရှားပါးသည့် ရပ်ဝေးက မုန့်တစ်ခုခုကို စားမည်ဟု ပြောမည်ဟု တိုင်ပင်ထားကြသည်ဟု ဆိုပါသည်။ ထိုအခါ မိမိတို့က မည်သည့်မုန့်ကိုပဲ ပြောပြော ဆရာတော်က ကျွေးခဲ့သည်ဟု ဆိုပါသည်။ ထိုရွာတွင် ၁၀ နှစ်ခန့်မျှ နေပြီးသည့်နောက် ဘယ်သို့ ကြွသွားမှန်းမသိ၊ ထွက်ခွာသွားသည်ဟု ဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၃၈)

၎င်းနောက် အဆက်အစပ်များ ကင်းပျောက်နေခဲ့ပါသည်။ သို့သော်လည်း အဆက်အစပ်ကို မင်းလှမြို့တွင် တွေ့ရှိရပြန်ပါသည်။ ရွပ်ပုံလွှာမှာ ခုန်ပျံကျော်လွှား၍ နေသော်လည်း ဆက်စပ်ယှဉ်လျှင် မြင်သာပါသည်။ မင်းလှမြို့၏ အရှေ့မြောက်အရပ်တွင် မဟာဇေယျကျောင်းဟူ၍ ဘုန်းတော်ကြီးကျောင်း တစ်ကျောင်းရှိပါသည်။



ထိုကျောင်းတွင် ဆရာတော် ဦးသီဟသည် သီတင်းသုံးခဲ့ဖူးကြောင်း အကျင့်စခန်းများကို အောင်မြင်ခဲ့ကြောင်း သိရှိခဲ့ရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၃၁)

## ရဟန္တာ ဦးသီဟ၏ ဓာတ်ပုံတော်

ထိုကျောင်းတွင် တိလောကမာရဇိန် ဗုဒ္ဓ လစကြာစေတီတော် ဟူသော စေတီတော်တစ်ဆူ ရှိပါသည်။ ထိုစေတီတော်ကြီး၏ သမိုင်းစာအုပ် ၁၃၆၂ ခုနှစ်က ထုတ်ဝေခဲ့ပါသည်။ ထိုစာအုပ်ထဲတွင် ဆရာတော် ဦးသီဟ၏ ဓာတ်ပုံကို တွေ့ရှိရပါသည်။ ထိုပုံတော်၏အောက်တွင် ရေးထားသောစာမှာ မှတ်သားဖွယ်ရာ ဖြစ်ပါသည်။

**စာသားမှာ မဟာထေယျ အောင်မြေဘုံ၌ အောင်ဓာတ်ကိုယူ အောင်ပန်းချူပြီးသော ပုဂ္ဂိုလ်ထူးဟု ရေးသားဖော်ပြထားကြောင်း သိရှိရပါသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၃၁)

ကွင်းဆက်များ ပြတ်လျက်ရှိသော မဟာထေရုပ္ပတ္တိကို တစ်စစီ လိုက်၍ကောက်သော်လည်း ကျေနပ်လောက်အောင်မရရှိခဲ့ပါ။

၁၉၆၉ ဆရာတော် ဦးသီဟသည် အေဒီ ၁၉၆၉ ခု၊ ဒီဇင်ဘာ ၁၁ ရက်၊ ကြာသပတေးနေ့ (၁၃၃၁ ခု၊ နတ်တော်လဆန်း ၂ ရက်နေ့)တွင် ပျံလွန်တော်မူခဲ့ကြောင်း သိရှိရပါသည်။ ထိုအခါ ဆရာတော် ဦးသီဟသည် သက်တော် ၆၂ နှစ် ဝါတော် ၄၂ ဝါ ရှိပြီးဖြစ်ကြောင်းသိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၃၁)

## ယနေ့တိုင် ဖူးမြော်နိုင်သော ရုပ်ကလာပ်တော်

ယခုအခါ ဆရာတော်၏ မပုပ်မသိုးသော ရုပ်ကလာပ်တော်ကို အုတ်ဖိုမြို့နယ် ဂုံညင်းတန်းရွာအနီး သရက်ပင်ကန်ရွာ၌ ရွှေဘုန်းပွင့် စံကျောင်းတွင် ဖူးမြော်နိုင်ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ၊ ၃၁)

ထိုရုပ်ကလာပ်တော်သည် နှစ်ပေါင်း ၃၀/၄၀ ကြာအောင် ကြာညောင်းခဲ့ပြီဖြစ်သော်လည်း ယနေ့သွား၍ ဖူးမြော်လိုက်ပါလျှင်လည်း မူလပကတိကဲ့သို့ပင် ဖူးမြော်ရပေသည်။

ဂုံညင်းတန်းရွာမှ ရန်ကုန် ပြည် မော်တော်ကားလမ်းပေါ်တွင် အနောက်ဘက်၌ တည်ရှိသော ရွာတစ်ရွာ ဖြစ်ပါသည်။ အုတ်ဖိုမြို့နယ်အတွင်းဖြစ်ပါသည်။ ထိုအုတ်ဖိုမြို့နယ်ရှိ ဂုံညင်းတန်းရွာအနီးတွင် သရက်ပင်ကန်ရွာ ဟူ၍ရှိပါ၏။ ထိုရွာတွင် ရွှေဘုန်းပွင့် စံကျောင်းဟူ၍ရှိပါ၏။ ထိုကျောင်းတွင် ရဟန္တာဟု ကျော်ကြားခဲ့သော ဦးသီဟ၏ ရုပ်ကလာပ်တော်ကို ဖူးမြော်နိုင်ပါသည်။

အဓိပ္ပာယ် မသိ ဘ ပုစ္ဆာတစ်ပုဒ်ကဲ့သို့ အများပြောနေသော အကြောင်းတစ်ခု သိရှိရပါသည်။ ထိုအကြောင်းမှာ အခြားမဟုတ်ပါ။ ရုပ်ကလာပ်တော်၏ရှေ့တွင် ထားရှိသော ရွှေလောင်းလှေ ဖြစ်ပါသည်။ အလျား ၆ ပေခန့် ရှိသော လောင်းလှေကလေး ဖြစ်၏။ မည်သည့်အဓိပ္ပာယ်မှန်း မည်သူမျှ မသိကြပါ။ သို့သော်လည်း သီလရှင်ကြီး ဒေါ်တေဇကမှ လှိုင်းကြီးလှေအောက်ဟူ၍ ပြောပါသည်။ သီလရှင် ဒေါ်တေဇသည် ဆရာတော် ဦးသီဟ၏ မြေးတော်စပ်သူ ဖြစ်ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ မောင်သောင်းဝင်း (စစ်ကွင်း)၊ ရွှေဘုန်းပွင့်က ဆရာတော် ဦးသီဟ၏ မပုပ်မသိုးသော ရုပ်ကလာပ်တော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း ၊ ၂၀၀၄ ခု၊ ဩဂုတ်လ၊ အမှတ် ၂၁၇၊ စာ - ၃၀-၃၂။)

ဂဠုန်တောင်မှ ကုံလုံဆရာတော်ဘုရားကြီး

# ဦးတေဇနိယ

အေဒီ ၁၉၀၇ – ၂၀၀၄ ( ၁၂၆၉ – ၁၃၆၅ )



တော်ဝင်မြို



ကုံလုံဆရာတော်ဘုရားကြီး၏ လက္ခဏာမှ ပါရမီရှင်အမှတ်အသားများအကြောင်းကို ဦးအောင်မြိုင် (လက္ခဏာဗေဒင် သုတေသီက) ပြန်လည်တင်ပြရာတွင် သစ်တစ်ပင်ကောင်းက ငှက်တစ်သောင်း နားနိုင်သည်ဟူသော စကားနှင့်အညီ ဝေနေယျအပေါင်းကို မေတ္တာဖြန့်ဝေ၍ သောကကင်းပျောက် ရောက်စေနိုင်၏။ မေတ္တာစွမ်းအား ကြီးမားသူဖြစ်၏ဟု ပြဋ္ဌန်းလျက် ရှိကြောင်း မှတ်တမ်းတင်ခဲ့ပါသည်။

(ကျမ်းကိုး။ ဦးအောင်မြိုင် လက္ခဏာဗေဒင် သုတေသီ၊ နက္ခတ္တရောင်ခြည်၊ ၁၉၉၆ ခု ဇူလိုင်လ ၊ အမှတ် ၁၂၀၊ စာ ၁၃၆ )

ဂင်းအပြင် ဓမ္မရုပ်စုံစာစောင်တွင်လည်း သုတေသီ မြင့်ထွန်းက ကုံလုံဆရာတော်ဘုရားကြီးနှင့် အံ့ဖွယ်ဘူးသီးဘုရား အကြောင်းကို တခမ်းတနား ရေးသားခဲ့ကြောင်း တွေ့ရှိရပါသည်။

(ကျမ်းကိုး။ သုတေသီ မြင့်ထွန်း၊ ဓမ္မရုပ်စုံ စာစောင် စာ ၁၆ - ၁၉)

ဂင်းအပြင် ကုံလုံဆရာတော်ဘုရားကြီးနှင့် ပတ်သက်၍ မှတ်သားမိသမျှကို ဦးထွန်းလွင် (ဓမ္မာစရိယ ဘီအေ)က ရတနာမွန် စာစောင်တွင် ဖော်ပြကြောင်း ဖတ်ရှုရပြန်ပါသည်။

ကုံလုံဆရာတော်ဘုရားကြီးသည် နှစ်ပေါင်းများစွာ တောထဲ တောင်ထဲ၌ ကမ္မဋ္ဌာန်းဘာဝနာ အလုပ်ကို အပတ်တကုတ် ကြိုးစားအားထုတ်တော်မူကြောင်း၊

သက်လွတ်မီးလွတ်အဖြစ် သစ်သီးဝလံများကိုသာ နှစ်ပေါင်းများစွာ ဘုဉ်းပေးတော်မူကြောင်း

ထိုသို့ သစ်သီးဝလံများကိုသာ အမြဲဘုဉ်းပေးလေ့ရှိသဖြင့် ကုံလုံဆရာတော်ဘုရားကြီး၏ ကိုယ်ရန့်များမှာ စန္ဒကူးနံ့လိုလို၊ နံ့သာနံ့ လိုလို အမြဲတမ်း သင်းပျံ့မွှေးကြိုင်နေကြောင်း၊

ဆရာတော် တရားအားထုတ်နေစဉ်အခါက ကျား စသော သားရိုင်းတိရစ္ဆာန်များမှာ ဆရာတော်အား ရန်မပြုရုံတင်မက ဆရာတော်ကြီးအား ပူဇော်သမှုပင် ပြုသွားကြကြောင်း၊

သူတို့ဘက်တွင် အချို့ ချို့သော ကင်ဆာရောဂါသည်၊ တီဘီရောဂါသည် စသည့် ရောဂါသည် အမျိုးမျိုးတို့သည် ဆရာတော်ကြီး၏ မေတ္တာ ပရိတ်ရေနှင့်ပင် ပျောက်ကင်းချမ်းသာသွားကြကြောင်း၊

သူတို့ဆီတွင် အချို့အိမ်များ၌ ဆရာတော်ကြီး၏ ပုံတော်ကြီးကိုပဲ ရောဂါကင်းအောင်၊ စီးပွား လာဘ်လာဘရွှင်အောင် ကိုးကွယ်ထားကြကြောင်း ဖော်ပြထားခဲ့ပါသည်။

(ကျမ်းကိုး။ ထွန်းလွင် ဓမ္မာစရိယ ဘီအေ၊ ကျေးဇူးရှင် ကုံလုံဆရာတော်ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ ၁၉၉၃ ခု၊ ဩဂုတ်လ အတွဲ ၂၀၊ အမှတ် ၈ စာ ၅-၆)

ကုံလုံဆရာတော်ဘုရားကြီး၏ ဟောကြားချက်များကို ဒေါက်တာ ဓမ္မရက္ခိတ အရှင်သူမြတ်က ပြန်လည်ရေးသား တင်ဆက်ရာတွင် သရဏဂုံအကြောင်းကို အောက်ပါအတိုင်း ဖတ်ရှုရပါသည်။

သရဏဂုံ ကိုယ်လုံးခြုံ လုံးစုံ သိဒ္ဓိဟိတ်လို့ ဆိုတယ်မဟုတ်လား၊ အဲဒါ ခြုံထားလိုက်ပေါ့၊ အန္တရာယ်ကင်း၊ ကပ်ကျော်နင်း၊ ပေါ်ခြင်း လာဘ်မဆိတ်တဲ့ အဆန်းလည်းမရှိပါဘူး၊ အဲဒီ သရဏဂုံ ရိုးရိုးကလေးကိုပဲ၊ ပေါက်မြောက်အောင်မြင်အောင် ပွားများအားထုတ်ပါဦး။

(ကျမ်းကိုး။ အေးဖေသိန်း ရွှေကန်၊ ကုံလုံဆရာတော်ကြီး ပါရမီ မဂ္ဂဇင်း၊ စာ ၈၈)



ဇင်းအပြင် ကုံလုံဆရာတော်ဘုရားကြီးနှင့် ပတ်သက်၍ ရွှေကျင်သာသနာပိုင် ညောင်ရွှေကန်ကြီး ဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း သုံးသပ်မှတ်ချက်ချထားသည်ကို ဖတ်ရှုရပါသည်။

> ဤပုဂ္ဂိုလ်ကြီးမျိုး ကြုံခဲ၏။ တွေ့ခဲ၏။ သူ့လိုလည်း မဖြစ်နိုင်။ သူ့ပါရမီကား အလွန်ထူးခြား၏။ လောဘပယ်၊ ဒေါသကွယ်၊ မောဟပြယ်၊ သစ္စာလွှယ်၊ ခန္တီမူလ ပဓာနလို့ခေါ်တဲ့ ဆရာတော်ကြီးရဲ့ အဆုံးအမဟာ ဗုဒ္ဓမေတ္တာရဲ့ အရင်းအမြစ်ဖြစ်တယ်။ ပိဋကတ်သုံးပုံ ခြုံလိုက်ရင် သီလ၊ သမာဓိ၊ ပညာလို့ ရတယ်။ အခု ကုံလုံဆရာတော်ရဲ့ အဆုံးအမဟာ အဲဒီ အညွှာကိုင်ထားတာပဲ။
>
> (ကျမ်းကိုး၊ ဒေါက်တာ ဓမ္မရက္ခိတ၊ ဆရာတော်ဘုရား၏ ခြေတော်ရင်းဝယ်၊ ကုံလုံဆရာတော်ဘုရားကြီး၏ ဩဝါဒကထာများ၊ ၁၉၉၇ ခု၊ ပထမအကြိမ်၊ စမ်းမာလာ ပုံနှိပ်တိုက်၊ စာ ၁၈)
>
> ဆရာတော်ဘုရားကြီးသည် မြန်မာနိုင်ငံတွင် တစ်ခေတ်တစ်ယောက် ဆိုသလောက် ပေါ်ထွန်းလာခဲ့သော ပုဂ္ဂိုလ်ထူးတစ်ပါး ဖြစ်တော်မူသည်။
>
> (ကျမ်းကိုး၊ ဒေါက်တာ ဓမ္မရက္ခိတ၊ ဆရာတော်ဘုရား၏ ခြေတော်ရင်းဝယ်၊ ကုံလုံဆရာတော်ဘုရားကြီး၏ ဩဝါဒ ကထာများ၊ ၁၉၉၇ ခု၊ ပထမအကြိမ်၊ စမ်းမာလာ ပုံနှိပ်တိုက်၊ စာ ၁၈)

ဆရာတော်ဘုရားကြီးနှင့် စပ်လျဉ်း၍ ထူးခြားအံ့ဖွယ် ကြည်ညိုဖွယ်ရာများကို ဖတ်ရှုရသည်မှာ အကြိမ်ကြိမ်ဖြစ်ပါသည်။ အချို့ကို ပြန်လည်တင်ပြပါမည်။

တစ်နေ့သောအခါ ဗေဒင်ဆရာ စာရေးဆရာတစ်ဦးသည် မိမိဘဝ အကြောင်းသိလိုသဖြင့် ဆရာတော်ဘုရားကြီး လျှောက်ထားမည်ပြုပြီးမှ ဘုရားဖူးများအကြားဝယ် မသင့်တော်ဟု ယူဆသဖြင့် မလျှောက်ဘဲ ငြိမ်နေလိုက်ပါသည်။ ထိုသို့ ကြံစည်သည်ကိုပင် ဆရာတော်ကြီးက သိနေနှင့်ပါသည်။ ထိုအကြောင်းကို ကိုယ်တွေ့ကြုံသူက ပြန်ပြောပါသည်။

> ဆရာတော်ကြီး၏ နှုတ်မှ အင်း . . အချို့ကလည်း ဆရာအလုပ်နဲ့ အောင်မြင်ကြီးပွားနိုင်ပါမလားလို့ လျှောက်ထား မေးမြန်းနေချင်ကြတယ်။ ဒါကလည်း မခက်ပါဘူး၊ ဆရာအလုပ်နဲ့ အောင်မြင်ကြီးပွားချင်သူဟု ဆရာနဲ့တူအောင် ထိန်းသင့်တာထိန်း၊ ကျင့်ကြံ အားထုတ်သင့်တာကို ကျင့်ကြံ အားထုတ်ရ မှာပေါ့ဟု ရုတ်တရက် မိန့်ကြားလိုက်ပါသည်။
>
> (ကျမ်းကိုး၊ စိုးမင်းတင့်၊ လှိုင်ကော်၊ ကြည်ညိုသဒ္ဓါပွားစရာ၊ ကုံလုံ ထေရမဟာ၊ သူရဋ္ဌ ၂၀၀၂ ခု၊ ဇန်နဝါရီလ အတွဲ ၂ အမှတ် ၁၊ စာ ၄၀)

ဆရာတော်ဘုရားကြီး၏ ထူးခြားချက်များမှာ ပြန်ပြောစရာ များစွာရှိပါသည်။ ထူးခြားချက် အချို့ကို မြတ်ပွင့်ဖြူက ပြန်လည်တင်ပြထားသည်မှာ လွန်စွာကြည်ညိုဖွယ်ဖြစ်ပါသည်။ ဖတ်ကြည့်ပါ။

၁။ ခဲဖွယ်ဘောဇဉ်များကို နှစ်ပေါင်း ၃၀ ကျော် ကြာအောင် စားနေသော်လည်း၊ ကျန်းမာ ပကတိရှိ၍ ဝဖြိုးနေခြင်း။

၂။ ပါရမီထူးခြားစွာ အသားတော်မှ အမွှေးနံ့များ ထွက်နေခြင်း။

၃။ ဆရာတော်ဘုရားကြီး၏ ခြေတော်ရင်းသို့ ရောက်လိုသောသူများသည် အသက်သတ်လွတ်စား၍ လာမှသာလျှင် ဆရာတော်ဘုရားကြီးထံပါးသို့ အဆင်ပြေစွာရောက် ရှိနိုင်ခြင်း။



၄။ ဆရာတော်ဘုရားကြီး၏ ကျောင်းတော်သို့ ဧည့်သည်များလာမည်ကို ဆရာတော်ဘုရားကြီးက ကြိုတင် သိရှိနေခြင်း။

၅။ အောက်လမ်းနည်းဖြင့် ပြုစားခြင်းရှိနေရသော ဝေနေယျများသည် ဆရာတော်ဘုရားကြီး ရေချိုးတော်မူပြီးလျှင် ရေများကို သောက်သုံးပါက ခံစားနေရသော ဝေဒနာများ လက်ငင်း ဒိဋ္ဌ ပျောက်ကင်းနိုင်ခြင်း။

၆။ သွေးရိုးသားရိုး အတော်အသင့် မကျန်းမာသောသူများ ဆရာတော်ကြီး၏ ခြေတော်ရင်းသို့ ရောက်ရှိ ဦးခိုက်လိုက်ပါက လုံးဝသက်သာပျောက်ကင်းခြင်း။

၇။ ဆရာတော်ဘုရားကြီး၏ ကျောင်းတော်သို့ ဧည့်သည်အရေအတွက် မည်မျှပင် ရောက်စေကာမူ အချိန်အခါမရွေး အခက်အခဲမရှိဘဲ တည်းခိုနိုင်ခြင်း။

၈။ ဆရာတော်ဘုရားကြီးသည် လဲလျောင်းတရားမှတ်သည်မှအပ ထိနမိတ္တမရှိခြင်း။

၉။ ဆရာတော်ဘုရားကြီးထံ ရောက်ရှိ ဖူးမြော်လာသူများကို အဆင့်အတန်း မခွဲခြားဘဲ၊ အချိန်ကန့်သတ်မှုမရှိဘဲ အဖူးမြော်ခံခြင်း။ (ကျန်းမာရေးအတွက် ဦးပဥ္စင်းများ မေတ္တာရပ်ခံချိန်မှအပ)

၁၀။ ဆရာတော်ဘုရားကြီး၏ အဓိဋ္ဌာန်မှာ ဆရာတော်ဘုရားကြီးနှင့် ပဋ္ဌာန်းဆက်ရှိသူမှန်သမျှ ဖူးတွေ့ခွင့်ရရှိရမည်။

၁၁။ ဆရာတော်ဘုရားကြီး၏ ကျောင်းတော်တွင် ပစ္စည်းလေးပါး လိုလေသေးမရှိ ပြည့်စုံပြီး တစ်နှစ်တစ်ခါ ဆရာတော်ပိုင် ပစ္စည်းများကို တစ်ခုမကျန် ပြန်၍ ဝေငှ လှူဒါန်း ပစ်လေ့ရှိခြင်း။

၁၂။ ဆရာတော်ဘုရားကြီး၏ ညာဘက် လက္ခဏာတော်တွင် ရှင်သီဝလိပုံတော်နှင့် ဘယ်လက်လက္ခဏာတော်တွင် ရှင်ဥပဂုတ္တပုံတော် ပါရှိခြင်း။

၁၃။ ခြေဖဝါးတော်တွင် ကြာပွင့်များပါ၍ ၎င်းခြေဖဝါးတော်နှင့် ဝေဒနာရှိသည့်နေရာကပ်၍ မေတ္တာပို့ပေးပါက ရောဂါဝေဒနာ ပျောက်ကင်းချမ်းသာခြင်း။

၁၄။ ရင်ဘတ် အလယ်တည့်တည့်တွင် မြဘုရားပုံတော် ဖြစ်ပေါ်နေခြင်း။

၁၅။ ဆရာတော်ဘုရားကြီး၏ ကျောင်းတော်ကို ဖူးမြော်ရန် သွားပါက သားငါးများ ပါရှိသွားပါက အန္တရာယ် တစ်စုံတစ်ရာ တွေ့တတ်ခြင်း။ ဧည့်သည်များ သားငါးများ သယ်ဆောင်လာသည်ကို ကြိုတင်သိရှိနေတတ်ခြင်း။

၁၆။ မည်သည့်အရပ်ဒေသတွင် နေသူဖြစ်ပါစေ အသက်သတ်လွတ်စား၍ ဆရာတော်ဘုရားကြီးအား ပင့်ဆောင်၍ သစ်သီးဆွမ်းကပ်ပါက ဓာတ်ဖြင့်ကြွ၍ ဆွမ်းဘုဉ်းပေးနိုင်ခြင်း၊ ဆရာတော်ဘုရားကြီး ကြွလာကြောင်းကို ဆရာတော်ဘုရားကြီး၏ ကိုယ်မှ ထွက်လာသော မွှေးကြိုင်သော ရနံ့များဖြင့် အသိပေးတတ်ခြင်း၊ အသက်သတ်လွတ်စား၍ ကိုးကွယ်သူများကို အနီးကပ်၍ စောင့်ရှောက်တတ်ခြင်း။

၁၇။ ဆရာတော်ဘုရားကြီးထံ သစ္စာအဓိဋ္ဌာန်ပြု၍ လုပ်ငန်းများကို လုပ်ဆောင်ပါက အောင်မြင်မှုရှိခြင်း။

၁၈။ ဆရာတော်ဘုရားကြီးသည် သက်တော် ၈၄ နှစ် အတွင်းသို့ ချဉ်းနင်းဝင်ရောက်နေခြင်း



ဖြစ်သော်လည်း သွားလာလှုပ်ရှားမှုများမှာ သာမန် လူငယ်တစ်ယောက်ကဲ့သို့ အတွယ် အမှီမရှိဘဲ ဖျတ်လတ်သွက်လက်စွာ သွားလာလှုပ်ရှားနိုင်သည်ကို တွေ့ရခြင်း။

(ကျမ်းကိုး၊ မြတ်ပွင့်ဖြူ ဂျူနီတောင်မှ ကိုလုံဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း၊ ၁၉၉၀ ခု၊ ပထမအကြိမ်၊ စာပေလုပ်သား ပုံနှိပ်တိုက်၊ စာ ၃၉-၄၀)

၁၉၀၈ အေဒီ ၁၉၀၈ ခု ၊ ဧပြီလ ၄ ရက်၊ (၁၂၆၉ ခုနှစ်၊ တန်ခူးလဆန်း ၄ ရက်) စနေနေ့ ညနေ ၆ နာရီ တွင် ဦးတူး ဒေါ်ထွေးမိတို့မှာ မီးရှူးသန့်စင်ဖွားမြင်ခဲ့ပါသည်။

ဆရာတော်သည် ဓနုလူမျိုး ဖြစ်သည်။ ငယ်မည်မှာ မောင်ထွန်းသာဟု ခေါ်ပါသည်။ မွေးချင်း ၇ ယောက်ရှိ၏ အငယ်ဆုံးဖြစ်၏။ အစ်ကိုတော် အစ်မတော်တို့မှာ မပိုင်း၊ မပုတ်၊ မောင်ညို၊ မောင်ပို၊ အောင်ချို၊ သျှမ်းပို၊ မောင်ထွန်းသာဟူ၍ ဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၂၁)

၁၉၁၁ အေဒီ ၁၉၁၀ ခု (၁၂၇၂ ခုနှစ်) ဆရာတော် ၃ နှစ်သားအရွယ်တွင် ဖခင်ဆုံးသွားပါသည်။ မိခင်လည်း ဆုံးသွားခဲ့ပါသည်။

ဆရာတော်သည် ရဟန်းဘဝဖြစ်သည့်အထိ ခဲခဲယဉ်းယဉ်း နေထိုင်စားသောက်ခဲ့ရသည်ဟု သိရပါသည်။

၁၉၂၁ အေဒီ ၁၉၂၁ ခု (၁၂၈၂ ခုနှစ်) အသက် ၁၃ နှစ်အရွယ်တွင် သာမဏေဘဝရောက်ခဲ့၏။ ဒါယကာမှာ တောင်ကြားကြီးရွာမှ ဦးအောင် ဒေါ်ပို တို့ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းစာ ၂၁)

၁၉၂၇ အေဒီ ၁၉၂၇ ခု၊ ဇူလိုင်လ ၆ ရက် (၁၂၈၉ ခုနှစ် ဝါဆိုလဆန်း ၈ ရက်) စနေနေ့ အသက် ၁၉ နှစ် ၆ လပြည့်သောနေ့တွင် ရဟန်းဘောင်သို့ ရောက်ခဲ့ပါသည်။ ရဟန်းဒါယကာများမှာ တောင်ကြားကြီးရွာနေ ပဥ္စင်းဘကြွေ ဇနီးဒေါ်ဆွေတို့က ကြီးမှူး၍ တမဲရွာ ဦးဖိုးနီ၊ ဒေါ်လန်း ဒေါ်အမာတို့ ဖြစ်ကြ၏။

(မှတ်ချက်။ ၁၂၈၉ ခုနှစ် ဝါဆိုလဆန်း ၈ ရက်နေ့သည် ဗုဒ္ဓဟူးနေ့ ဖြစ်ပါသည်။ မြတ်ပွင့်ဖြူ စာ၊ စာမျက်နှာ ၂၂ ၌ စနေနေ့ဟု တွေ့ရပါသည်။ ကျမ်းကိုး။ ပညာ့အလင်းပြ၊ ၁၈၆၄ - ၁၉၆၇၊ နှစ်တစ်ရာ ပြက္ခဒိန်၊ ၁၉၆၃ ခုနှစ်တွင် ပုံနှိပ် စာ ၃၈၂ )

၁၉၂၉ အေဒီ ၁၉၂၉ ခု (၁၂၉၁ ခုနှစ်) ရဟန်း ၂ ဝါ ရသောအခါ ပင်းတယမြို့ ကျောက်တော်ကျောင်း ဆရာတော် ပျံလွန်တော်မူရာသို့ ကြွသွားခဲ့၏။ ၎င်းတို့က အကူအညီတောင်းသဖြင့် ကျောင်းထိုင်ဆရာတော် ရှာပေးရ၏။

ဆရာတော်သည် မန္တလေးသို့ကြွပြီး ဘုရားကြီးတိုက် မော်လမြိုင်ကျောင်းတွင် ပညာသင်ကြားခဲ့၏။ မန္တလေးတွင် ၄ ဝါခန့် ပညာသင်ကြားခဲ့၏။

ဆရာတော်သည် ပင်းတယမြို့ ပွေးလှ ကျောက်တောကျောင်းတွင် ပညာသင်ခဲ့၏။ ရွှေဥဒေါင်းတောင်ဆရာတော် ဦးကုမာရသည်လည်းကောင်း၊ ဘိုကလေးဆရာတော် ဦးပညာဇောတဉာဏစာတိ ဆရာတော်သည်လည်းကောင်း အတူ ပညာသင်ဖက်ဖြစ်၏။

(ကျမ်းကိုး၊ ယင်းစာ ၂၃)



ဆရာရင်းမှာ ဦးကိတ္တိဖြစ်၏။ ဦးကိတ္တိသည် အဂ္ဂိရတ်ဖိုထိုးခြင်းတွင်လည်းကောင်း၊ တောတွင်းရှိ အပင်များကို ရှာဖွေ၍ ဆေးအဖြစ် သုံးရာတွင်လည်းကောင်း ကျွမ်းကျင်သူဖြစ်၏။

ဆရာတော်သည် ဦးဂန္ဓမာထံမှလည်း ပန်းချီ ပန်းပု ဆေးပညာ အင်းပညာ မန္တာန်ပညာများကို ထူးခြားအောင် သင်ကြားခဲ့၏။

(ကျမ်းကိုး၊ ယင်းစာ ၂၃)

ဂင်းနောက် ဆရာတော်သည် ပွေးလှမြို့တွင် မနေတော့ဘဲ ဝါးကျောင်းကလေးတစ်ခု ဆောက်၍နေခဲ့၏။ ကုန်းသာယာရွာ ဘုရားအနီးမှာဖြစ်၏။

ထိုအချိန်တွင် ဘုရားနီကျောင်းဆရာတော် ဦးအာသဖ ပျံလွန်ခဲ့၏။ သို့နှင့် ကျောင်းထိုင်အဖြစ် တာဝန်ယူရ၏။ ထိုအခါမှစ၍ အသွေးအသားများကို တစ်သက်လုံးရှောင်ရန် အဓိဋ္ဌာန်ပြုခဲ့သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၂၅)

ဘုရားနီကျောင်းတွင် တရားအားထုတ်နေစဉ်မှာ ဆဋ္ဌသင်္ဂါယနာတင်တော်မူရန် ပင့်ဖိတ်ခြင်းခံရ၏။ ပင်းတယမြို့နယ် သံဃာ့ကိုယ်စားလှယ်ဖြစ်လာ၏။

ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီးသို့ ကြွမြန်း၍ သင်္ဂါယနာ တင်ခဲ့ဖူးလေသည်။

(ကျမ်းကိုး၊ ယင်းစာ ၂၆)

၁၉၅၆ အေဒီ ၁၉၅၆ ခု ကောဇာ ၁၃၁၈ ခု (သာသနာ ၂၅၀၀ ပြည့်နှစ်)မှာ လောကီကိစ္စများကို အလွန်ငြီးငွေ့သဖြင့် တောထွက်ခဲ့၏။

(ကျမ်းကိုး၊ ယင်းစာ ၂၆)

ဆရာတော်သည် ဘုရားနီကျေးရွာမှ ကျွဲကျောင်းသား ဖိုးအောင်အားခေါ်၍ တောထွက်ခဲ့၏။ ရော့ စိပ်ပုတီးကိုင် ရှေ့ကထွက်ဟုဆိုပြီး သင်္ကန်း ၃ ထည်ဖြင့် တောထွက်ခဲ့၏။ အနောက်ဘက် တောင်တန်းရှိ ဘော်နှင်းဂူသို့ ထွက်ခဲ့ခြင်းဖြစ်၏။ ထိုဂူသို့ရောက်သောအခါ အလွန်ကြောက်စရာများတွေ့သဖြင့် ဦးဖိုးအောင်သည် ရွာသို့ ပြန်ပြေးလေ၏။

(ကျမ်းကိုး၊ ယင်းစာ ၂၆)

ထိုဘော်နှင်းဂူမှ ၂ ဖာလုံဝေးသောနေရာတွင် ကျားတွင်းဂူဟူ၍ရှိ၏။ ထိုအချိန်တွင် ဂငူန်တောင်မှ အစောင့်နတ်များက သူတို့နေရာ ဂငူန်တောင်သို့ လာရောက် သာသနာပြုရန် အကြိမ်ကြိမ်လျှောက်ထားကြ၏။ သို့နှင့် ဂငူန်တောင်သို့ ကြွမြန်းခဲ့ရလေသည်။

(ကျမ်းကိုး၊ ယင်းစာ ၂၇)

ဂငူန်တောင်ကြားနှင့် ၂ ဖာလုံအကွာတွင် ရေအိုင်ကြီးရှိ၏။ နွေဖြစ်စေ၊ မိုးဖြစ်စေ၊ ရေအမြဲရှိ၏။ ပေ ၃၀၀ ပတ်ဝန်းကျင် ကျယ်ပြန့်၏။ နဂါးများ ရေကစားသော ရေအိုင်ဖြစ်၏။



ဂဠုန်တောင်ဆိုသည်မှာ ဂဠုန်မင်းကြီး နေထိုင်ရာအရပ်ဖြစ်သဖြင့် ဂဠုန်တောင်ဟု ခေါ်တွင်ကြောင်း ဆရာတော်က မိန့်တော်မူဖူး၏။

(ကျမ်းကိုး၊ ယင်းစာ ၂၇)

ဆရာတော်ကြီးသည် စားဖွယ်အာဟာရများကို လှူဒါန်းသူရှိလျှင် ဘုဉ်းပေး၏။ မရှိလျှင်လည်းနေနိုင်၏။ ရက်ရှည်လများ ကပ်လှူသူ မရှိပါကလည်း ကျန်းမာချမ်းသာစွာ နေနိုင်စွမ်းရှိ၏။

အသွေးလွတ် အသားလွတ် သစ်သီးများ သစ်ရွက်များကိုသာ ဘုဉ်းပေးတော်မူ၏။ ဖြူစင်သော သီလလည်းရှိ၏။ တည်ကြည်သော သမာဓိလည်းရှိ၏။ ထူးမြတ်သော ပညာလည်းရှိ၏။ ဆရာတော်ကြီး၏ ခန္ဓာကိုယ်မှာ နံ့သာဆီရနံ့များ အစဉ်မွှေးသည်။ ဆရာတော်ကြီး၏ ခြေဖဝါးနှစ်ဖက်စလုံးတွင် ကြာဖူးပုံရှိ၏။

ဆရာတော်ကြီးသည် ဘော်နှင်းဂူတွင် တရားအားထုတ်စဉ်အခါက ညအခါကာလများတွင် ဂူထဲမှာ အလင်းရောင်များ ထွက်နေသဖြင့် ရွာသားများ သွားရောက်ကြည့်ရှုကြ၏။ ထိုအခါ ဆရာတော်ကြီးကို တွေ့ရလေသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၀)

ဆရာတော်ကြီးသည် ကျားတွင်းဂူသို့ ရွှေ့ပြောင်း အားထုတ်ပြန်၏။ ကျားများကျားသစ်များ လာရောက်ပူဇော်ကြ၏။ ဆရာတော်ကြီးအားနမ်းကြ၏။ အရိုင်းတိရစ္ဆာန်များသည် ကြောင်ကလေးများသဖွယ် သိမ်မွေ့လျက် ပူဇော်ပြီး ပြန်သွားကြမြဲဖြစ်၏။

(ကျမ်းကိုး၊ ယင်းစာ ၃၀)

တစ်ရံရောအခါက ဖြစ်ပါသည်။

ဂဠုန်တောင်တွင် ဆရာတော်ကြီး သီတင်းသုံး တရားအားထုတ်နေစဉ် ရှေးယခင်က လူဆိုး လူမိုက်များ ခိုအောင်းရာဖြစ်သည့်အလျှောက် ဆရာတော်ထံ တပည့်တကာများ လာရောက်လှူဒါန်းထားသော ပစ္စည်းများကို လူဆိုးများက လာရောက်ယူကြပြန်သည်။ ဆရာတော်ကြီးမှာကား ၎င်းပစ္စည်းများကို ယူချင်သည့်လူ ယူရန် ခွင့်လွှတ်စွန့်ပယ်ထားပြီဖြစ်၍ လူဆိုးများအားလည်း အလှူခံပုဂ္ဂိုလ်ဟု သတ်မှတ်ကာ ပေးလှူခဲ့သည်။ လူဆိုးများသည် ကောင်းမွန်စွာ အလှူမခံဘဲ လောဘရမ္မက်ဆိုးကြောင့် ဆရာတော်ဘုရားကြီးအား ရိုက်နှက်ပြီး ကြိုးများဖြင့် တုပ်နှောင် အလှူခံကြရာ ဆရာတော်က ဒကာတို့ ဦးပဥ္ဇင်းမှာ ဘာမှမရှိ။ ရှိသည့်ပစ္စည်းများကိုလည်း ဒကာတို့ ကြိုက်သလို ရှာဖွေစွန့်လှူပြီးဖြစ်တယ်။ အေး ဦးပဥ္ဇင်းဆီမှာ ကျန်တဲ့ပစ္စည်းကတော့ တရားပဲကျန်တော့တယ်။ တရားဆိုတာ လုယူလို့မရဘူး၊ တောင်းယူလို့မရဘူး၊ မိမိကိုယ်တိုင် ကျင့်ကြံအားထုတ်မှရတယ်ဟု မိန့်ကြားလေသည်။ ဆရာတော်က ကြိုးများဖြေပေးခဲ့ပါ၊ ကြိုးတုပ်စရာမလို၊ ဦးပဥ္ဇင်းပစ္စည်းများမှာ သော့လည်းမရှိ၊ သေတ္တာလည်းမရှိ၊ ရှာကြံယူလို့ရသားပဲဟု ပြောဆိုသော်လည်း ကြိုးမဖြေပေးဘဲ ပြန်လည်ထွက်ခွာသွားကြလေသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၁)



ဆရာတော်ကြီးသည် ဤပစ္စည်းများကြောင့် ဒုက္ခတွေ့ရသည်။ ဤခန္ဓာကိုယ်ကြီးရ၍ ဒုက္ခရောက်ရသည်။ ကြိုးဖြေပေးသည့်သူလည်းမရှိရှာ၊ သံဝေဂတရားများ ပိုမိုရရှိ၍ အဓိဋ္ဌာန်ပြု၍ တရားရှုမှတ် နေလိုက်ရာ ဖြေပေးမည့် သူမရှိသောကြိုးများ အလိုအလျောက် ပြေကုန်လေ၏။

ဆရာတော်ကြီးကို လူဆိုးများ ချည်နှောင်ခဲ့သောကြိုးကို မီးပုံထဲသို့ ထည့်နိုင်းလိုက်လေသည်။ လူဆိုးများနေထိုင်သည့် အိမ်များ မီးလောင်၍ ဆရာတော်ထံမှ ယူထားသော ပစ္စည်းများ ပေါ်လာရလေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၂)

ဆရာတော်ကြီးသည် ကျောက်ဆင်ကြီးဘုရားကိုလည်း ပြုပြင်ခဲ့လေသည်။ ၎င်းဘုရား၏ အောက်ခြေ ကျောက်တောင်ကြီးသည် ဆင်ကြီးတစ်ကောင်နှင့်တူပေ၏။ မည်သည့်ဘက်က ကြည့်ကြည့် ဆင်ဦးခေါင်းများဖြင့် ဝိုင်းရံထားသကဲ့သို့မြင်ရ၏။

၎င်းကျောက်တောင် ပတ်လည်သည် အလွန်ထူးဆန်း၏။ တနင်္ဂနွေထောင့်တွင် ကျောက်သားကျောက်ဆောင် ဂဠုန်ပုံရှိ၏။ တနင်္လာထောင့်တွင် ကျောက်သားကျောက်ဆောင် ကျားပုံရှိ၏။ အင်္ဂါထောင့်တွင် ကျောက်သားကျောက်ဆောင် ခြင်္သေ့ပုံရှိ၏။ ဗုဒ္ဓဟူးထောင့် ကျောက်သားကျောက်ဆောင် ဆင်ပုံရှိ၏။ ကြာသပတေးထောင့်တွင် ကျောက်သားကျောက်ဆောင် ကြွက်ပုံရှိ၏။ သောကြာထောင့် ကျောက်သားကျောက်ဆောင် ပူးပုံရှိ၏။ စနေထောင့် ကျောက်သားကျောက်ဆောင် နဂါးပုံရှိ၏။ ကျောက်သားကျောက်ဆောင်များမှာလည်း သူရဿတီမယ်တော် ဟင်္သာစီးနေပုံဖြစ်နေ၏။ ၎င်းအပြင် ကျောက်သားကျောက်ဆောင် ဇော်ဂျီပုံများ၊ ကျောက်သားကျောက်ဆောင် ဘီလူးပုံများလည်း အလိုလို ဖြစ်ပေါ်နေ၏။

(ကျမ်းကိုး၊ ယင်းစာ ၃၂)

တစ်ကြိမ်တွင် စာရေးသူတို့ ကုလုံကျောင်းတွင် ရောက်ရှိ၍ ဆရာတော်အား ဖူးမြော်နေစဉ် ဆရာတော်ကြီးက ယခုလာနေသော ဧည့်သည်များ မသန့်ရှင်းဟု ပြောကြားနေစဉ် ဂျစ်ကားတစ်စီး ကျောင်းရှေ့တွင် လာရပ်ပြီး ယောကျ်ား ၄-၅ ယောက် ဆင်းလာကာ ဆရာတော်ကြီးအား ကန်တော့ကြ၍ ၎င်းလူများထံမှ အရက်နံ့များ ထွက်နေသည်ကို စာရေးသူ ကိုယ်တိုင်ကြုံရ၍ ဆရာတော်ကြီး ကြိုတင်သိမြင်သည်ကို အံ့ဩမိခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၃)

တစ်ခါတွင်လည်း ဆရာတော်ကြီးထံပါး စာရေးသူတို့ ရောက်ရှိ ဝတ်ပြုကန်တော့နေစဉ် ဆရာတော်က ယခုလာနေသော ဧည့်သည်ကားကို ကျောင်းဝင်းထဲမဝင်ပါစေနဲ့ဦး၊ အလွန်နံသည်။ သူတို့မှာပါသော ပစ္စည်းများချခဲ့ပြီးမှ ဝင်ပါစေဟု မိန့်ကြားရာ ဆရာတော်၏ တပည့်တစ်ယောက်သည် ဆရာတော် ကျောင်းသို့ ဦးတည်မောင်းလာသော ဘုရားဖူးကားဆီသို့ ကြိုတင်သွား၏။ စုံစမ်းရာ ဝက်သားများ ကျောင်းရောက်လျှင် ချက်စားရန် ပင်းတယဈေးမှ ဝင်ဝယ်လာခဲ့ကြောင်း သိရ၍ ဝက်သားများ ကျောင်းဝင်းအပြင်တွင် ချန်ထားခဲ့ပြီးမှ ကျောင်းသို့လာရောက်၍ ဆရာတော်ဖူးခွင့်ရခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၄)



ဆရာတော်ဘုရားကြီး၏ ဘုန်းတန်ခိုးအာနုဘော်မှာ အံ့သြထူးခြားလှပေသည်။ ဆရာတော်သည် အသွေးလွတ် အသားလွတ်ဖြစ်သော သစ်သီးဝလံများကိုသာ ဘုဉ်းပေးတော်မူနေသောကြောင့် ထူးဆန်းသော အသီးအနှံများ ဆရာတော်ထံသို့ ရောက်ရှိလာပေသည်။

ဘူးဘုရား ဆရာတော်ထံ ရောက်လာခြင်း၊ ဘူးငန်း ဆရာတော်ထံ ရောက်လာခြင်း၊ ပြောင်းဖူးကိုးဆူစေတီ ရောက်လာခြင်း။

(ကျမ်းကိုး၊ ယင်းစာ ၃၄)

ဘူးငန်းကိုလည်း ဦးဇော်မင်းကလာပြီး လှူဒါန်းခဲ့ခြင်းဖြစ်ပါသည်။ ထူးခြားစွာ ဖူးလာသော ပြောင်းဖူးကြီးကိုးဖူးကိုလည်း ဆရာတော်ကျောင်းသို့ လာလှူကြပါသည်။ ၎င်းပြောင်းဖူး ကိုးဖူးမှာ အလယ်မှ အဖူးတစ်ဖူးကို ကျန်အဖူးငယ်များကရံ၍ စေတီကြီး တစ်ဆူကို စေတီများရံ၍နေသယောင် ပေါ်နေသည်ကို တွေ့ရပါသည်။

ဆရာတော်ကြီးသည် ပရိယတ္တိ၊ ပဋိပတ္တိ သာမက ပန်းချီ၊ ပန်းပု ပညာကိုပါ တတ်မြောက်ထားသောကြောင့် ဂျွန်တောင်ရှိ တန်ဆောင်းများတွင် တပ်ဆင်ထားသော ပန်းဆွဲများသည် ဆရာတော်ကြီး ရေးဆွဲပြုလုပ်စေသော ပန်းဆွဲများဖြစ်ပေသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၆)

၁၉၈၁ သက်တော် ၈၅ နှစ်ပြည့်၊ အေဒီ ၁၉၈၁ ခု၊ အောက်တိုဘာလ ၃၁ ရက်၊ စနေနေ့ (၁၃၄၃ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၄ ရက်နေ့)အထိ ကံထပ်ပြီးသည့် အကြိမ်ပေါင်း ၁၂၆၉ ကြိမ်၊ ပြည့်မြောက်ပြီးဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းစာ ၃၇)

၁၉၉၁ အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘွဲ့တံဆိပ်တော်ကို အေဒီ ၁၉၉၁ ခု၊ နိုဝင်ဘာလ ၂၁ ရက်၊ ကြာသပတေးနေ့ (၁၃၅၃ ခုနှစ်၊ တန်ဆောင်မုန်း လပြည့်နေ့) တွင် ဆက်ကပ်လှူဒါန်းပါသည်။

ဆရာတော်ကြီးသည် အမေရိကန်နိုင်ငံ၊ ထိုင်းနိုင်ငံ၊ ဂျပန်နိုင်ငံ၊ စင်ကာပူ၊ အိန္ဒိယဗုဒ္ဓဂါယာ စသော အရပ်ဒေသများသို့ သွားရောက် သာသနာပြုခဲ့ပါသည်။

(ကျမ်းကိုး၊ ၁။ မြတ်ပွင့်ဖြူ၊ ဂျွန်တောင်မှ ကံ့လုံ့ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း၊ ၁၉၉၀ ခု၊ ပထမအကြိမ်၊ စာပေလုပ်သား ပုံနှိပ်တိုက်၊ စာ ၃၉-၄၀) (ကျမ်းကိုး၊ ၂။ ဒေါက်တာ ဓမ္မရက္ခိတ၊ ဆရာတော်ဘုရား၏ ခြေတော်ရင်းဝယ်၊ ကံ့လုံ့ဆရာတော်ဘုရားကြီး၏ သြဝါဒ ကထာများ၊ ၁၉၉၇ ခု၊ ပထမအကြိမ်၊ စမ်းမာလာ ပုံနှိပ်တိုက်၊ စာ ၁၈) (ကျမ်းကိုး၊ ၃။ အေးဖေသိန်း ရွှေကန်၊ ကံ့လုံ့ဆရာတော်ကြီး၊ ပါရမီ မဂ္ဂဇင်း၊ စာ ၈၈) (ကျမ်းကိုး၊ ၄။ ထွန်းလွင် (ဓမ္မာစရိယ၊ ဘီအေ) ကျေးဇူးရှင် ကံ့လုံ့ဆရာတော်ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ ၁၉၉၃ ခု၊ သြဂုတ်လ အတွဲ ၂၀၊ အမှတ် ၈ စာ ၅-၆ )(ကျမ်းကိုး၊ ၅။ ဦးအောင်မြိုင် လက္ခဏာဗေဒင် သုတေသီ၊ နက္ခတ္တရောင်ခြည်၊ ၁၉၉၆ ခု ဇူလိုင်လ ၊ အမှတ် ၁၂၀၊ စာ ၁၃၆)

အရောင်မျိုးစုံဓာတ်တော်များနှင့် အံတော်များ ဦးခေါင်းရိုးခွံများ ကျန်ရှိ၍
ယနေ့တိုင် ပူဇော်ထားသော သီပေါမြို့ တြိုပ္ပဒ္ဒသိမ်တောင် ရဟန္တာအရှင်မြတ်ကြီး

# ဆရာတော် ဦးစန္ဒာဝရ

## ခေအဒီ ၁၉၀၈ – ၁၉၉၇ ( ၁၂၇၀ –၁၃၅၉)





ဆရာတော်ကြီး၏ဘွဲ့တော်မှာ ဘဒ္ဒန္တစန္ဒာဝရ ဖြစ်သည်။ ရခိုင်လူမျိုး ဖြစ်သည်။ မွေးရပ်ဇာတိမှာ သံတွဲမြို့နယ်၊ မင်းကွန်ကျေးရွာဖြစ်သည်။ အဘအမည် ဦးအောင်သာ ဖြစ်သည်။ အမိ အမည် ဒေါ်မင်းခေါင်ဖြစ်သည်။

၁၉၀၈ အေဒီ ၁၉၀၈ ခု၊ ဧပြီလ ၂၀ ရက်၊ တနင်္လာနေ့ (၁၂၇၀ ပြည့်နှစ် တန်ခူးလပြည့်ကျော် ၅ ရက်နေ့)တွင် ဖွားမြင်တော်မူသည်။

(ကျမ်းကိုး။ ဒေါက်တာ မင်းထွဋ် သီပေါ၊ တြိပွဒ္ဓသိမ်တောင် ကုန်းမြေမှ ကိုးဆူတောင်ဆရာတော် ဘဒ္ဒန္တ စန္ဒာဝရ အရှင်သူမြတ်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း။ ၁၉၉၉ ခု၊ ဇူလိုင်လ အမှတ် ၁၅၆၊ စာ ၂၅ -၂၇)

၁၉၁၅ အသက် ၇ နှစ်အရွယ် ရောက်သောအခါ ရှင်သာမဏေဝတ်ခဲ့ကြောင်း သိရပါသည်။

၁၉၁၈ အသက် ၁၀ နှစ်အရွယ်တွင် ရန်ကုန်မြို့သို့ ပညာသင်ရန် ရောက်ရှိခဲ့ပါသည်။ ၎င်းနောက် မန္တလေးတိုင်း စဥ့်ကိုင်မြို့နယ်သို့ ရောက်ရှိသွားသည်။ ထိုမြို့နယ်ရွာဦးကျောင်းဆရာတော် ဦးဇာဂရထံတွင် ပရိယတ္တိပဋိပတ္တိ စာပေပညာရပ်များ သင်ကြားဆည်းပူးခဲ့ကြောင်း သိရှိရပါသည်။

၁၉၂၇ အသက် ၁၉ နှစ်အရွယ်သို့ ရောက်သောအခါ ထိုစဥ့်ကိုင်ရွာ ရွာဦးကျောင်းဆရာတော် ဦးဇာဂရထံတော်တွင် ဥပသမ္ပာယ်ခံ၍ ရဟန်းဘောင်သို့ တက်ရောက်ခဲ့ကြောင်း သိရပါသည်။

၁၉၅၂ အေဒီ ၁၉၅၂ ခု (၁၃၁၄ ခုနှစ်)တွင် သီပေါမြို့သို့ ရောက်ရှိလာခဲ့ပါသည်။ ထိုအခါ သက်တော် ၄၄ နှစ် အရွယ်သို့ ရောက်ရှိပါသည်။

ထိုနေရာတွင် ဒုဋ္ဌဝတီမြစ်ရှိ၏။ ထိုမြစ်၏ အရှေ့ဘက်ကမ်းတွင် တြိပွဒ္ဓသိမ်တောင် ဟူ၍ရှိ၏။ ထိုတောင်ကုန်းမြေ ပေါ်တွင် အရညဝါသီ တောရပ်မှီ၍ တရားများ ကျင့်ကြံပွားများ အားထုတ်ခဲ့ကြောင်း သိရှိရပါသည်။

၁၉၉၀ သက်တော် ၈၂ နှစ်အရွယ် တော်သို့ ရောက်သောအခါ ကျန်းမာရေး ချို့တဲ့လာသည်ဟုဆိုပါသည်။ ထိုနှစ်သည် အေဒီ ၁၉၉၀ ခု (၁၃၅၂ ခုနှစ်)ဖြစ်၏။

သက်တော် ၈၉ နှစ်အရွယ်တော်သို့ ရောက်သောအခါအထိ ထိုတောင်တော်တွင်ပင် တရားအားထုတ်ခဲ့ကြောင်း သိရပါသည်။

၁၉၉၇ အေဒီ ၁၉၉၇ ခု၊ ဩဂုတ်လ ၁၂ ရက်၊ အင်္ဂါနေ့ (၁၃၅၉ ခုနှစ် ဝါခေါင်လဆန်း ၉ ရက်) နံနက် ၃ နာရီ ၄၅ မိနစ် အချိန်တွင် ဆရာတော်ကြီး ဦးစန္ဒာဝရသည် ဘဝနတ်ထံ ပျံလွန်တော်မူသည်ဟု သိရှိရပါသည်။

၁၉၉၇ ထိုနှစ် အေဒီ ၁၉၉၇ ခု၊ ဩဂုတ်လ ၁၆ ရက်၊ စနေနေ့ (၁၃၅၉ ဝါခေါင်လဆန်း ၁၃ ရက်နေ့)တွင် အန္တိမ အဂ္ဂိဈာပနသဘင် ဆင်ယင်ကျင်းပခဲ့ပါသည်။

နေရာမှာ မူလ သီတင်းသုံးတော်မူခဲ့သော သိမ်တောင်ကုန်းမြေ တောင်ကလပ်တွင်ပင် ဖြစ်ပါသည်။ ထိုအခါကျမှာ ဆရာတော်ကြီး၏ ထူးခြားအံ့ဖွယ်များကို သိရှိကြည်ညိုတော်မူရသဖြင့် ရှေးရှေးအခါများက ဘာမျှမသိခဲ့ရသည်များကို တပည့်အပေါင်းတို့က လွန်စွာဝမ်းနည်း ကြေကွဲကြရသည်ဟု ဆိုပါသည်။



အဘယ်ကြောင့်ဆိုသော် ဈာပနသဘင် ကျင်းပပြီး နောက် ၂ ရက်အကြာတွင် ဆရာတော်ကြီး၏ အရိုးပြာများကို သိမ်းယူကြသောအခါမှာ မီးမလောင်ကျွမ်းသော အံတော်များကို လည်းကောင်း၊ ဦးခေါင်းရိုးခွံကို လည်းကောင်း အရွယ်မျိုးစုံ အရောင်မျိုးစုံ ဓာတ်တော်များကိုလည်းကောင်း အံ့သြဖွယ်ရာ ကြည်ညိုဖွယ်ရာ ဖူးတွေ့ရသောအခါမှ ငါတို့ကိုးကွယ်သော ဆရာတော်ကြီးမှာ ရဟန္တာအစစ်မြတ်ကြီးပါတကားဟု သိရှိတော်မူရပါသည်။ ယခုအခါ အပူဇော်ခံထားသော ဆရာတော်ကြီး၏ ဦးခေါင်းအရိုးခွံများမှ ဆံတော်များပင် ပြန်လည်ပေါက်နေကြောင်း အံ့စဖွယ် ဖူးတွေ့ရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၇)

ဆရာတော်ကြီး သက်တော် ထင်ရှား ရှိစဉ်အခါကလည်း ဆရာတော်ကြီးသည် တစ်ပါးတည်းသာ သီတင်းသုံးတော်မူလေ့ရှိကြောင်း သိရှိရပါသည်။ တစ်ခါတစ်ရံ ဒကာ ဒကာမများ သွားရောက်ဖူးမြော်သောအခါမှာလည်း ကြာရှည်စွာ စကားပြောလေ့ မရှိကြောင်း သိရပါသည်။ ဆရာတော်ကြီးကို ကန်တော့ပြီးသည့်နှင့် တစ်ပြိုင်နက်တည်း ဆရာတော်ကြီးက ကြာကြာလက်မခံဘဲ ပြန်ကြပြန်ကြဟု ပြန်ခိုင်းသည်ဟု ဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၂၇)

သီပေါမြို့မှ လှမ်းကြည့်လျှင် ထိုတြိပ္ပဒ္ဒသိမ်တောင်ကို မြင်ရပါသည်။ ထိုတောင်ပေါ်မှ ကြည့်လျှင်လည်း သီပေါမြို့ကို လှမ်း၍မြင်နေရပါသည်။ ထိုနေရာမှာကြည့်လျှင် စီးဆင်းနေသော မြစ်တစ်စင်းတွေ့ရ၏။ ထိုမြစ်ကို ဒုဋ္ဌဝတီမြစ်ဟုခေါ်ပါ၏။ ထိုမြစ်၏ အနောက်ဘက်ကမ်းတွင် သီပေါမြို့ရှိပါသည်။ ထိုမြစ်၏ အရှေ့ဘက်ကမ်းတွင် တြိပ္ပဒ္ဒသိမ်တောင် ရှိပါသည်။ ထိုတောင်ကုန်းမြေတွင် ထိုတစ်တောင်တည်း မဟုတ်ချေ။ တောင်သုံးလုံးရှိ၏။ တောင်တစ်တောင်မှာ ကိုးဆူတောင်ဟု ခေါ်ပါ၏။

အခြားတစ်တောင်မှာ ငါးဆူတောင်ဟု ခေါ်ပါ၏။ ကျန်တောင် တစ်တောင်ကို သုံးဆူတောင်ဟု ခေါ်ပါ၏။ ထိုတောင်ပေါ်တွင် ရှေးအခါက ရဟန္တာသူတော်စင် ပုဂ္ဂိုလ်များ သီတင်းသုံးတော်မူခဲ့ကြောင်း ယနေ့တိုင် ပြောဆိုလျက်ရှိကြပါသည်။

ကိုးဆူတောင်တွင် အရညဝါသီ တောရမှီလျက် တရားကျင့်ကြံ အားထုတ်တော်မူသော ရဟန္တာဆရာတော်ကြီးတစ်ပါးရှိကြောင်း ပြောစမှတ်ပြုကြပါသည်။ ထိုဆရာတော်ကြီးမှာ ဆရာတော် ဦးစန္ဒာဝရဖြစ်ပါသည်။

**ဆရာတော်ကြီး၏ ကြွင်းကျန်သော ဓာတ်တော်၊ ရောင်စုံများနှင့်တကွ ဆံပင်များပင်လျှင် ပြန်ပေါက်လျက်ရှိသော ဦးခွံကိုသာမက ကြွင်းကျန်နေသော အံတော်များကို ယနေ့တိုင် သွားရောက်ဖူးမြော်နိုင်ပါသေးသည်။**

(ကျမ်းကိုး၊ ဒေါက်တာ မင်းထွဋ်၊ သီပေါ၊ တြိပ္ပဒ္ဒသိမ်တောင် ကုန်းမြေမှ ကိုးဆူတောင် ဆရာတော် ဘဒ္ဒန္တ စန္ဒာဝရ အရှင်သူမြတ်၊ နကွတ္တရောင်ခြည် မဂ္ဂဇင်း၊ ၁၉၉၉ ခု၊ ဇူလိုင်လ အမှတ် ၁၅၆၊ စာ ၂၅ - ၂၇)

စာတတ်တော်ကျသော

# အံ့ဖွယ်ထူးခြား တတိယ မိုးကုတ်ဆရာတော်ဘုရား ဦးတေဇိန္ဒ

ခေအဒီ ၁၉၀၈ – ၂၀၀၂ ( ၁၂၇၀ – ၁၃၆၄)





## ဓာတ်တော်များ ကြွင်းကျန်တော်မူခြင်း

ဆရာတော်ကြီးဦးတေဇိန္ဒ၏ ကြွင်းကျန်ခဲ့သော ရုပ်ကလာပ်တော်ကို မီးသဂြိုဟ်တော်မူသောအခါ တချို့မှာ အရိုးအတိုင်းသာ တွေ့ရပြီး အချို့အဝက်မှာ ဓာတ်တော်များ ကြွင်းကျန်ကြောင်း သိရှိရပါသည်။ ကြွင်းကျန်သော ဓာတ်တော်များနှင့် အရိုးတချို့ကို မင်္ဂလာတိုက်ကျောင်းတွင် ယနေ့တိုင် ပူဇော်ထားရှိပါသည်။ မင်္ဂလာတိုက်ကျောင်းသည် မိုးကုတ်မြို့ ထင်းရှူးခြံအရပ်တွင် တည်ရှိပါသည်။

(ကျမ်းကိုး။ ဦးကျော် ပြည်၊ မိုးကုတ် မင်္ဂလာတိုက်ကျောင်းသို့ ရောက်ခဲ့စဉ်က၊ ပါရမီ မဂ္ဂဇင်း။ ၂၀၀၃ ခု မတ်လ၊ စာ ၆-၇)

၁၉၀၈ တတိယ မိုးကုတ်ဆရာတော်ဘုရားကြီးမှာ အေဒီ ၁၉၀၈ ခု၊ ဩဂုတ်လ၊ ၁ ရက်၊ (၁၂၇၀ ပြည့်နှစ် ဝါခေါင်လဆန်း ၅ ရက်) စနေနေ့တွင် ဖွားမြင်ခဲ့ပါသည်။

ခမည်းတော်မှာ ဦးဖိုးခန့်ဖြစ်၏။ မယ်တော်မှာ ဒေါ်စုဖြစ်၏။ ဇာတိမှာ မကွေးတိုင်းဒေသကြီး မင်းဘူးမြို့နယ်၊ နန်းတော်ကုန်း ကျေးရွာဇာတိဖြစ်၏။

၁၉၂၉ အေဒီ ၁၉၂၉ ခု၊ ဇန်နဝါရီ ၁၇ ရက်၊ ကြာသပတေးနေ့ (၁၂၉၀ ပြည့်နှစ် တပို့တွဲလဆန်း ၈ ရက်နေ့)တွင် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့ပါသည်။

ရွာသာယာ ကျောက်မှော်တိုက်၊ ဆရာတော် ဦးပညာထံတွင်လည်းကောင်း၊ နန်းတော်ကုန်း ဆရာတော်ဦးနန္ဒိယထံတွင် လည်းကောင်း၊ ပရိယတ္တိစာပေများကို သင်ယူခဲ့ပြီး ပခုက္ကူမြို့ မဟာဝိသုတာ ရာမတိုက် သဒ္ဓမ္မဇောတိကကျောင်းတွင်လည်း သင်ယူခဲ့ပါသည်။ မန္တလေးမြို့ ဘုရားကြီးတိုက် အောင် မင်္ဂလာကျောင်းတိုက်တွင် ပရိယတ္တိကို အားကြိုးမာန်တက် သင်ကြားပို့ချပါသည်။ အမရပူရမြို့ မင်္ဂလာ တိုက်ကျေးဇူးတော်ရှင် မိုးကုတ်ဆရာတော်ကြီးထံတွင် ၁၁ နှစ်တိုင် နေ့ဝါ၊ ညဝါ များကို သင်ယူပါသည်။ ပြန်လည်ပို့ချခြင်းများဖြင့်လည်း တာဝန်ကျေပွန်ခဲ့ပါသည်။

မိုးကုတ်မြို့ ထင်းရှူးခြံရပ် မင်္ဂလာတိုက်တွင် မိုးကုတ်ဆရာတော်ကြီး၏ စီမံချက်ဖြင့် ဆရာတော် ဦးနန္ဒိနှင့်အတူ နှစ်ပေါင်း (၃၀)ကျော်ခန့် သီတင်းသုံးနေထိုင်တော်မူခဲ့သောမြို့နယ် ဩဝါဒစရိယ၊ ဝိနည်းမိုရ်စသော တာဝန်များကို ကျေပွန်စွာ ဆောင်ရွက်တော်မူခဲ့ပါသည်။

တတိယ မိုးကုတ်ဆရာတော်ဘုရားကြီးသည် မဟာဝိသုတာရာမိက ဂဏဝါစက နိကာယရတ္တညူ မဟာထေရ ဘွဲ့လက်မှတ်တော်ကို လက်ခံရရှိတော်မူခဲ့ပါသည်။

## အံ့ဖွယ်ထူးခြားသော တတိယ မိုးကုတ်ဆရာတော်ဘုရား

တတိယ မိုးကုတ်ဆရာတော်ဘုရားကြီးမှာလည်း အလွန်ထူးခြားသော ဆရာတော်ကြီးဖြစ်ပါသည်။ ဆရာတော်ကြီးမှာ မျက်လုံးကင်ဆာရောဂါကြီး စွဲကပ်ခဲ့ကြောင်း သိရှိရပါသည်။ ထိုအခါ ဆရာဝန်ကြီးများ၏ အဆိုအရ ၆ လလောက်ပင် နေရတော့မည်ဟု ဆိုပါသည်။ မျက်လုံးတော်များလည်း မြင်မကောင်းလောက်အောင် ပြုတ်ထွက်လုမတတ် ရှေ့သို့ ဖူးထွက်နေပြီး စူနေပါသည်။ ဘယ်ဘက် မျက်လုံး ဖြစ်ပါသည်။

သို့သော်လည်း အလွန်ထူးသည်မှာ ဆရာတော်ကြီးသည် ဘယ်အခါမှ ညည်းညူခြင်းမရှိခဲ့ချေ။ ဆေးတိုက်ပါဟူ၍လည်းကောင်း၊ ဘာလုပ်ပေးပါဦးဟူ၍လည်းကောင်း၊ ဘယ်အခါကမှာ မိန့်တော်မမူခဲ့ပေ။ ထိုအခါ တပည့်များက မကြည့်ရက်သဖြင့် မျက်လုံးတော် ဝေဒနာ ဘယ်လိုခံစားရပါသလဲ လျှောက်



ထားလျှင်လည်း ခန္ဓာရှိလျှင် ဝေဒနာရှိတာပါပဲ ဟူ၍သာ မိန့်တော်မူပါသည်။ ဝေဒနာမရှိသလို နေလိုက်ရင် ပြီးတာပါပဲ ဤရောဂါက ငါ့ကို ဒုက္ခမပေးပါဘူး ဟူ၍သာ မိန့်တော်မူပါသည်။

ဆရာဝန်ကြီးများ၏ အဆိုအရ ကင်ဆာ၏ ဆဲလ်များက ဦးနှောက်တစ်ခုလုံး ပြန့်နှံ့သွားပြီးလျှင် ၆ လထက် ပို၍ အသက်မရှည်နိုင်ကြောင်း သိရှိရပါသည်။ သို့သော်လည်း နောက်ထပ် ၂ နှစ်အထိ ဆရာတော်ကြီးသည် အသက်ရှည်လျက်ရှိပေသည်။ ဆရာဝန်ကြီးများက ပြန်လည် စမ်းသပ်ပြန်သောအခါ ကင်ဆာအကြောများက ပြန့်နှံ့သွားခြင်းမရှိဘဲ မျက်လုံးတစ်ဝိုက်မှာပင် စုလျက်ရှိနေကြသဖြင့် ဆရာဝန်ကြီး များ ကိုယ်တိုင်ကလည်း အံ့သြကြပါသည်။

## ခန္ဓာဝန်ချ

၂၀၀၂ ၆ လဟု မှန်းသော်လည်း နောက်ထပ် ၄ နှစ်ကြာသည့်အထိ ဝေဒနာကို သည်းခံတော်မူခဲ့ပါသည်။ အေဒီ ၂၀၀၂ ခု (၁၃၆၄ ခုနှစ် နယုန်လပြည့်ကျော် ၁ ရက်) ဗုဒ္ဓဟူးနေ့ ညနေ ၄ နာရီတွင် ခန္ဓာဝန် ချတော်မူပါသည်။

## နောက်ဆုံးအမှာစကား

အားလုံးအား ခေါ်ပြီးလျှင် အရှင်ဘုရားတို့ ငွေကြေး မစုဆောင်းကြပါနဲ့ဘုရား၊ ဒကာ ဒကာမ များနှင့် ပေါင်းပြီး ဘုန်းကြီးလာအောင်၊ လာဘ်လာဘရအောင် မလုပ်ကြနဲ့ဘုရား၊ ပဋိပတ် အကျင့်မြတ်ကို အားထုတ်တော်မူကြပါ။ သို့သော်လည်း ဒကာ ဒကာမများ သိအောင် အားမထုတ်ကြပါနှင့်ဘုရားဟု မိန့်ကြားတော်မူခဲ့ကြောင်း သိရပါသည်။

## ဓာတ်တော်များ ကြွင်းကျန်တော်မူခြင်း

ဆရာတော်ကြီး၏ ကြွင်းကျန်ခဲ့သော ရုပ်ကလာပ်တော်ကို မီးသဂြိုဟ်တော်မူသောအခါ တချို့မှာ အရိုးအတိုင်းသာတွေ့ရပြီး အချို့အဝတ်မှာ ဓာတ်တော်များ ကြွင်းကျန်ကြောင်း သိရှိရ ပါသည်။ ကြွင်းကျန်သော ဓာတ်တော်များနှင့် အရိုးတချို့ကို မင်္ဂလာတိုက်ကျောင်းတွင် ယနေ့တိုင် ပူဇော်ထားရှိပါသည်။ မင်္ဂလာတိုက်ကျောင်းသည် မိုးကုတ်မြို့ ထင်းရှူးခြံအရပ်တွင် တည်ရှိပါ သည်။

(ကျမ်းကိုး၊ ဦးကျော်(ပြည်) မိုးကုတ် မင်္ဂလာတိုက်ကျောင်းသို့ ရောက်ခဲ့စဉ်က၊ ပါရမီ မဂ္ဂဇင်း၊ ၂၀၀၃ ခု မတ်လ၊ စာ ၆-၇ တွင် အကျယ်ဖတ်ရှုကြပါ။)

ရောဝတီတိုင်းဒေသကြီး မအူပင်ခရိုင် ဓနုဖြူမြို့နယ်တွင်

ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေးသော

# ကျောက်ပန်းကြီး၊ နဲ့ကြိုးရွာလယ်ကျောင်းဆရာတော်

# ဦးစာရိတ္တာဘိဝံသ

ခေတ် ၁၉၀၉ - ၁၉၉၃ ( ၁၂၇၁ -၁၃၅၅)



တော်ဝင်မြို့



အလောင်းတော်ကို ရင်ခွဲခြင်း၊ ဆေးထိုးခြင်း စသော လောကီအစီအရင်များ လုံးဝမပြုလုပ်ဘဲ ယခုထက်တိုင် ဇရာဝတီတိုင်းဒေသကြီး မအူပင်ခရိုင်၊ ဓနုဖြူမြို့နယ်၊ နဲကြီးရွာလယ်ကျောင်း စံကျောင်းတော်ရှိ အလူမီနီယမ် မှန်ခေါင်းတော်အတွင်း၌ သီတင်းသုံးတော်မူလျက်ရှိသည်ကို ဖူးမြော်ကြည်ညိုနိုင်ကြပါသည်။

**ဇလွန်မြို့နယ် ကော့ကပ်ကြီးရွာသား**

၁၉၀၉ ထိုဆရာတော်ကြီးမှာ အေဒီ ၁၉၀၉ ခု၊ ဇွန်လ ၁ ရက်၊ (၁၂၇၁ ခု၊ နယုန်လဆန်း ၁၄ ရက်တွင်) ဖွားမြင်ကြောင်း သိရှိရပါသည်။ နေ့မှာ အင်္ဂါနေ့သားဖြစ်၏။ ငယ်နာမည်မှာ မောင်စိန်ဝါဖြစ်၏။ ဧရာဝတီတိုင်းဒေသကြီး ဟင်္သာတခရိုင် ဇလွန်မြို့နယ် ကော့ကပ်ကြီးရွာတွင် ဖွားမြင်၏။ ခမည်းတော်မှာ ဦးဖိုးထင်ဖြစ်၏။ မယ်တော်မှာ ဒေါ်ရွှေသက်ဖြစ်၏။

၁၉၂၁ အသက် ၁၂ နှစ်အရွယ်တွင် ကော့ကပ်ကြီးကျောင်း ဆရာတော် ဘဒ္ဒန္တရေဝတာဘိဝံသ မဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေ ပြုလုပ်ခဲ့ပါသည်။

၁၉၂၈ အေဒီ ၁၉၂၈ ခု၊ ဒီဇင်ဘာ ၁၃ ရက်၊ ကြာသပတေးနေ့ (၁၂၉၀ ခု၊ ပြာသိုလဆန်း ၃ ရက်နေ့)တွင် တောင်သာမြို့ အလယ်ချိုင့်ရွာ လေသာကျောင်းခဏ္ဍသိမ်၌ ဆရာတော် ဦးကဝိကို ဥပဇ္ဈာစရိယပြု၍ ရဟန်းဘဝသို့ ရောက်ရှိတော်မူခဲ့ပါသည်။

သာမဏေဘဝ၌ပင် ပထမပြန်စာမေးပွဲများကို အောင်မြင်ခဲ့ပြီးမှ ရဟန်းဘဝသို့ ရောက်သောအခါ တောင်သာမြို့ ဇဂျမ်းရွာနေ ဆရာကြီး ဦးကြွက်(ဦးဂုဏရံသီ)ထံတွင် သဒ္ဒါကျမ်းကို မိမိရရဆည်းပူးသင်ယူခဲ့ပါသည်။

ထို့နောက်တွင် မန္တလေးမြို့ မစိုးရိမ်ကျောင်းတိုက်၊ အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တသူရိယာဘိဝံသ (အဘိဓဇမဟာရဋ္ဌဂုရု) ဘုရားကြီးကျောင်းတိုက်ဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တနာရဒတို့အထံတော်၌ နေ့ဝါညဝါများကို သင်ကြားနာယူခဲ့ပါသည်။

**သကျသီဟ အမှတ်အများဆုံးဖြစ်ခဲ့**

၁၉၃၈ အေဒီ ၁၉၃၈ ခု (၁၂၈၉ ခုနှစ်)တွင် ထိုခေတ်အခါက အခက်အခဲဆုံးဖြစ်သော ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (သကျသီဟ) စာမေးပွဲကို အမှတ်အများဆုံးနှင့် အောင်မြင်တော်မူခဲ့ပါသည်။

၁၉၅၁ ဆရာတော်သည် အေဒီ ၁၉၅၁ ခု (၁၃၁၂ ခုနှစ်) တွင် ကော့ကပ်ကြီးရွာသို့ ပြန်လည်ကြွရောက်လာပြီး၊ ပရိယတ္တိစာသင်တိုက်ကို တည်ထောင်ကာ သာသနာ့ဝန်ကို စွမ်းစွမ်းတမံ ထမ်းဆောင်ခဲ့ပါသည်။ လောကီနှင့် ပတ်သက်သော အခွင့်အရေး ဟူသမျှကို လက်သင့်ခံတော်မမူဘဲ ကျောင်းဝင်းအတွင်း သီးသန့် ကမ္မဋ္ဌာန်းကျောင်းကလေးတွင် သီတင်းသုံး၍ ဓုတင်ဆောက်တည်ခြင်း၊ ဝိပဿနာတရား အားထုတ်ခြင်းတို့ကို ပြုတော်မူခဲ့ပါသည်။

**ရန်ကုန် တိုက်ကြီးမြို့နယ်၊ ဂျိုးဖြူမှာ တောဝင်**

၁၉၆၉ အေဒီ ၁၉၆၉ ခု (၁၃၃၁ ခု) သက်တော် ၆၀ ပြည့် ကာလ၌ကား၊ တပည့် ဒါယကာ၊ ကျောင်းစသော သံယောဇဉ်များကိုပယ်ဖြတ်၍ တိုက်ကြီးမြို့နယ် ဂျိုးဖြူတောသို့ဝင်ကာ ဝိပဿနာကမ္မဋ္ဌာန်းတရားကို အပတ်တကုတ်ကြိုးပမ်း အားထုတ်တော်မူခဲ့ပါသည်။ ဆရာတော်ဆွမ်းခံကြွရာ ဂျိုးဖြူ ကျားချောင်း စသော ရွာများမှ ရှမ်းတိုင်းရင်းသား ဒကာ၊ ဒကာမများ တသသ ပြောဆိုပြီး ကြည်ညိုမဆုံးရှိကြပါသည်။

## နဲ့ကြိုး ရွာလယ်ကျောင်း နဲ့ကြိုးဆရာတော်ဖြစ်လာ



၁၉၇၃ အေဒီ ၁၉၇၃ ခု (၁၃၃၄ ခုနှစ်) ကျေးဇူးတော်ရှင် ဆရာသခင် နဲ့ကြိုးရွာလယ်ကျောင်း ဒုတိယဆရာတော် ဘဒ္ဒန္တရေဝတာဘိဓဇ မဟာထေရ် ဘဝနတ်ထံ ပျံလွန်တော်မူလေရာ ဆရာသခင်၏ မိန့်မှာချက်အရ နဲ့ကြိုးရွာလယ်ကျောင်း တတိယဆရာတော်အဖြစ် ပြန်လည်၍ သီတင်းသုံးတော်မူရပါသည်။

၁၉၉၄ ဆရာတော်ဘုရားသည် ဂန္ထဓူရ၊ ဝိပဿနာဓူရ နှစ်ဌာနကို ကြိုးပမ်းအားထုတ်တော်မူရင်း သက်တော် ၈၅နှစ်၊ ဝါတော် ၆၅ ဝါ၊ အရောက် အေဒီ ၁၉၉၄ ခု၊ ဖေဖော်ဝါရီလ ၉ ရက် (၁၃၅၅ ခု၊ ပြာသို လပြည့်ကျော် ၁၄ ရက်) ဗုဒ္ဓဟူးနေ့ ညနေ ၅ နာရီ ၄၅ မိနစ်အချိန်၌ ဘဝနတ်ထံပျံ လွန်တော်မူခဲ့ပါသည်။

(ကျမ်းကိုး။ အထက်ပါအကြောင်းအရာများကို မောင်သန်းဆွေ (ကော့ကပ်ကြီး)၏ ကော့ကပ်ကြီး + နဲ့ကြိုးရွာလယ်ကျောင်း ဂျိုးဖြူတောရဆရာတော် ဘဒ္ဒန္တစာရိတ္တာဘိဝံသ၊ ဇလွန်မြို့နယ် မဂ္ဂဇင်း၊ စာ - ၅၇-၆၀ မှ ရရှိ ပါသည်)

အထက်ပါစာတွင် ကော့ကပ်ကြီးရွာသည် ဆရာတော်ကြီး၏ ဇာတိရပ်ရွာဖြစ်၏။ နဲ့ကြိုးရွာလယ်ကျောင်းသည် ဆရာတော်ကြီး၏ သီတင်းသုံးရာကျောင်းဖြစ်၏။

## ရန်ကုန် တိုက်ကြီး ဂျိုးဖြူတောရ ဆရာတော်ဟုလည်းခေါ်

ဂျိုးဖြူတောရသည် ရှေးသရေအခါက ဆရာတော်ကြီးသည် ရန်ကုန်တိုက်ကြီးမြို့နယ် ဂျိုးဖြူတောသို့ ဝင်ရောက်ကာ ကမ္မဋ္ဌာန်းတရားများ အားထုတ်ခဲ့ဖူးသောကြောင့်ဖြစ်သည်။ ထိုရွာတစ်ဝိုက်တွင် အရညဝါသီတောရမှီ ပုဂ္ဂိုလ်အဖြစ် ရှမ်းရွာမှ ရှမ်းတိုင်းရင်းသားများက အလွန်ကြည်ညိုကြပါသည်။

## ကော့ကပ်ကြီးဆရာတော်ဟုလည်းခေါ်

ထိုကြောင့် ဆရာတော်ကြီးကို ကော့ကပ်ကြီး ဆရာတော်၊ နဲ့ကြိုးဆရာတော်၊ ဂျိုးဖြူတောရ ဆရာတော်ဟူ၍ ဘွဲ့သညာ အမျိုးမျိုးဖြင့် ကြည်ညိုစွာ ခေါ်ဆိုကြခြင်းဖြစ်ပါသည်။

## လမ်းညွှန်

ကော့ကပ်ကြီးရွာသည် ဇလွန်မှသွားလျှင်လည်း ရောက်ပါသည်။ ဇလွန် ဓနုဖြူ မော်တော်ကားလမ်းအတိုင်းသွားရ၏။ ဇလွန်မှသွားလျှင် ဇီးဖြူကုန်းရွာသို့ရောက်၏။ ဇီးဖြူကုန်းရွာမှ ဆက်၍သွားလျှင် နဲ့ကြိုးရွာသို့ရောက်၏။

ဇလွန်နှင့် ဇီးဖြူကုန်းသည် ၁၂ မိုင်လောက် ဝေးလေသည်။ ဇီးဖြူကုန်းနှင့် နဲ့ကြိုးရွာသည် ၆ မိုင်လောက် ဝေးလေသည်။ မိုးအခါ ကာလများတွင် ဟင်္သာတမှ မော်တော်ကားဖြင့် သွား၍လည်း ရပါသေးသည်။

ဟင်္သာတမှသွားလျှင် ရှားခဲရွာသို့ ရောက်၏။ ရှားခဲရွာမှ ဆက်၍သွားလျှင် နဲ့ကြိုးရွာသို့ ရောက်၏။ နဲ့ကြိုးရွာသို့ ရောက်သည်အထိ ရှားခဲရွာမှ ၉ မိုင်လောက် ဝေးလေသည်။ ရေကြောင်းခရီးဖြစ်၏။

ဟင်္သာတမှ နတ်မော်ရွာမှလည်း သွား၍ရပါသေးသည်။ နတ်မော်ရွာမှ နဲ့ကြိုးရွာအရောက် ပဲ့ထောင်စက်လှေဖြင့်သွားလျှင် ရောက်ပါသည်။ ရေကြောင်းခရီးဖြစ်၏။ မိုင် ၂၀ လောက်ဝေး၏။

## နဲ့ကြိုးဆရာတော်များ

နဲ့ကြိုးရွာလယ်ကျောင်း ပဌမဆရာတော်မှာ ဦးကေတုဖြစ်၏။ ဦးကေတုပျံလွန်တော်မူသောအခါ ဒုတိယ ဆရာတော်မှာ ဦးရေဝတဖြစ်၏။ ဦးရေဝတပျံလွန်တော်မူသောအခါ တတိယဆရာတော်မှာ ဦးစာရိတ္တဖြစ်၏။ ဦးစာရိတ္တသည် ယခုဖော်ပြပါ ရုပ်ကလာပ်တော် ကြွင်းကျန်တော်မူသော ဆရာတော်ကြီး ဖြစ်၏။



## ဆရာတော်၏သုံးမစာ

ထိုနဲ့ကြိုးရွာလယ်ကျောင်းသို့ ရောက်လျှင် နဲ့ကြိုးဆရာတော်ကြီး၏ သုံးမစကားကို တွေ့ရပေလိမ့်မည်။ ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က ဒကာ ဒကာမ အပေါင်းတို့အား နေ့စဉ်ရွတ်ဆိုစေသော ဂါထာ လိုက်နာကျင့်သုံးစေသော ဂါထာဖြစ်၏ဟု သိရှိရပါသည်။ ထိုဂါထာတော်မှာ အောက်ပါအတိုင်းဖြစ်၏။

ညို ၊ မခိုနဲ့ မကပ်နဲ့၊
စောစောထ၊ ပြီးအောင်လုပ်၊
စိတ်ကောင်းမွေး ဟူ၍ ဖြစ်၏။

ဆရာတော်ကြီးအကြောင်း စိတ်ပါဝင်စားဖွယ်ရာများကို ဖော်ပြလျှင် အလွန်များပြားပါသည်။ ဆရာတော်ကြီး ခန္ဓာဝန်ချ စဉ်အခါက ထူးခြားဆန်းကြယ်မှုများကို မှတ်တမ်းတင်ထားသည်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

## ထူးခြားဆန်းကြယ်မှုများ

၁။ ဆရာတော်ဘုရား ပျံလွန်တော်မူသော နဲ့ကြိုးရွာလယ်ကျောင်းမှ သီတင်းသုံးရာ နေရာဟောင်းဖြစ်သော ကော့ကပ်ကြီးကျောင်းနှင့် ကော့ကပ်ကြီးရွာ ကိုးဆူရွာလယ်ဘုရားကြီးသို့ အလင်းတန်းကြီးပျံသွားသည်ကို လူအများ ဖူးမြော်ရခြင်း။

၂။ ပျံလွန်တော်မူသော ညက သစ်ပင်များ ကျိုးပြတ်၊ အဆောင်အအုံများ ပြိုပျက်လောက်အောင် ပြင်းထန်သောလေအဟုန် တိုက်ခတ်သော်လည်း နံနက်လင်းသောအခါ မည်သည့်အရာမျှမပျက်စီးဘဲ အကောင်းပကတိ တွေ့ရှိရခြင်း။

၁၉၉၄ ၃။ အေဒီ ၁၉၉၄ ခု၊ မတ်လ ၂၆ ရက်၊ စနေနေ့ (၁၃၅၅ ခု တပေါင်းလပြည့်နေ့) ည ၁၁ နာရီခန့်တွင် ကော့ကပ်ကြီးရွာပေါ်၌ ထိန်လင်းနေသည်ကို တွေ့ရှိရသဖြင့် ပွဲခင်းရှိပြန်ကြားရေးဌာနမှ အသိပေးကျေညာရခြင်း။

၄။ အလောင်းတော်ကို အဏ္ဍမဈာပနသဘင်ဆင်ယင်ကျင်းပမည့် ၁၃၅၅ ခု၊ တပေါင်းလပြည့်ကျော် ၁ ရက် နေ့တွင် အခါမဟုတ်၊ မိုးကြီးသည်းထန်စွာ ရွာသွန်းသဖြင့် မီးသင်္ဂြိုဟ်ရန်ဆောက်လုပ်ထားသော လောင်တိုက်တော်မှာ ပျက်စီးသွားခြင်း၊

၅။ ကောင်းကင်တစ်ခွင်လုံး အုံ့မှိုင်းလျက် ကျောင်းဝင်းတစ်ခုလုံး ခြေဖမိုးမြုပ်မျှ မိုးကြီးရွာချသဖြင့် ဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော်ကို မီးသင်္ဂြိုဟ်မှုပြုရန် မသင့်ဟုဆုံးဖြတ်ကြပြီး၊ ဆရာတော်ဘုရားကြီး၏ တပည့်ကြီးဖြစ်သူ ဖန်ခါးကွင်း ဘုန်းတော်ကြီးရတနာသုတ်လာ 'ယထိန္ဒခီလော ပထဝိသိတောသိယာ' အစချီသော ဂါထာတော်ကို ပါဠိအနက် သုံးကြိမ်ရွတ်ဆို၍ တပည့်သားများ၌ အပြစ်ကြီး အပြစ်ငယ်ရှိပါက ခွင့်လွှတ်တော်မူပါရန် ဆရာတော်ဘုရားကြီးက ဦးတိုက်၍ တောင်းပန်သော ခဏ၌ ကောင်းကင်ပြင်ဝယ် ပကတိ ကြည်လင်စွာ နေဝန်းကြီးထွန်းပေါ်လာခြင်း။

၆။ အလောင်းတော်ကို သင်္ဂြိုဟ်ရန်သွယ်တန်းထားသော ဖုံးကျည်သုံးခုအနက် တတိယဖုံးကျည်မှာ မီးမတိုက်ဘဲ အလိုအလျောက်မီးစွဲကာ လောင်တိုက်တော်အား ဦးတိုက် ဖောက်ခွဲခြင်း။

၁၉၉၄ ၇။ အေဒီ ၁၉၉၄ ခု၊ ဧပြီလ ၂၄ ရက်၊ တနင်္ဂနွေနေ့ (၁၃၅၅ ခုနှစ် တန်ခူးလဆန်း ၁၄ ရက်နေ့)၌ သီတင်းသုံးရာ ကျောင်းတော်မှ ယခုပူဇော်ခံထားရှိရာ စံကျောင်းတော်ကို ပြောင်းရွှေ့သော ည ၁၀ နာရီခန့်တွင် ကော့ကပ်ကြီးကိုးဆူ ရွာလယ်ဘုရားကြီးမှ ကော့ကပ်ကြီးကျောင်းသို့ ပြိုးပြိုးပြက်ပြက် အရောင်လက်သော အလင်းတန်းကြီး ပျံသန်းသည်ကို



တွေ့မြင်ကြရခြင်း စသည်တို့ဖြစ်ပါသည်။

(ကျမ်းကိုး၊ မောင်သန်းဆွေ ကော့ကပ်ကြီး၊ ကော့ကပ်ကြီး + နှဲကြိုးရွာလယ်ကျောင်း၊ ဂျိုးဖြူတောရ ဆရာတော်၊ ဘဒ္ဒန္တ စာရိတ္တာဘိဝံသ၊ ဇလွန်မြို့နယ် မဂ္ဂဇင်း၊ စာ ၅၇ - ၆၀)

လက်ရှိ နှဲကြိုးရွာလယ်ကျောင်း ဆရာတော် ဘဒ္ဒန္တဝေပုလ္လဆရာတော်၏ ကိုယ်တွေ့ ပြောပြချက်များအရ ပိုမို၍ ကြည်ညိုဖွယ်ရာများ တိုးပွားလာရပါသည်။

စံကျောင်းတော်က ရုပ်ကလာပ်တော်ကို သယ်ယူရွှေ့ပြောင်းဖို့ လုပ်တာနဲ့ နွေခေါင်ခေါင်မှာ မိုးတွေခြိမ်း၊ မိုးကြိုးတွေပစ်၊ လေပြင်းတွေတိုက်၊ မိုးသည်းသည်း ရွာချပြီး မဏ္ဍပ်တွေပြိုပျက်၊ ရေတွေပြည့်လျှံ၊ အစီအစဉ်တွေပျက်ရတယ်။ ဒီလိုနဲ့ (၃)(၄)ကြိမ် ဖြစ်ပျက်နေတော့ ရုပ်ကလာပ်တော်ကို ဘယ်သူမှ သွားမကိုင်ရဲကြတော့ဘူး၊ ထူးခြားချက်ကတော့ အပုပ်ရည်လဲမကျ၊ အနံ့ဆိုးလဲမထွက်၊ ခြေလက်တွေ ပျော့ပျောင်းနေတယ်။ တပည့်ဒကာတွေက စည်းဝေးပွဲ ပြန်ကျင်းပပြီး ရုပ်ကလာပ်တော်ကို အဝိစျာပနမပြုလုပ်တော့ဘဲ လက်ရှိအတိုင်း အပူဇော်ခံထားဖို့ ဆုံးဖြတ်ကြတော့၊ ချက်ချင်းပဲ နေပူလာခဲ့တယ်။ အဝိစျာပနမှာ အသုံးပြုဖို့ တပ်ဆင်ထားတဲ့ ဗုံးတွေ မီးမရှို့ရဘဲ အလိုအလျောက် ထပေါက်တယ်။

(ကျမ်းကိုး၊ ဝ၊ အောင်ဇေ LL.B နှဲကြိုးရွာမှ စိတ်ဝင်စားစရာများ နတ္တွတ္တရောင်ခြည် မဂ္ဂဇင်း၊ ၁၉၉၀ ခု၊ အောက်တိုဘာလ စာ ၂၇)

အထက်ပါ ထူးခြားချက်များအပြင် ဆရာတော် သက်တော်ထင်ရှားရှိစဉ် မမျှော်လင့်ထားသော ထူးခြားအံ့သြ ကြည်ညိုဖွယ်ရာများကိုလည်း လက်ရှိ နှဲကြိုးရွာလယ်ကျောင်းဆရာတော် ဘဒ္ဒန္တ ဝေပုလ္လက ဆက်လက် မိန့်တော်မူခဲ့ပါသေးသည်။

၁၉၉၄ အေဒီ ၁၉၉၄ ခု၊ ဧပြီလ ၂၃ ရက်၊ စနေနေ့ (၁၃၅၅ ခု ၊ တပေါင်းလဆန်း ၁၃ ရက်) ညက ဆရာတော် ပထမကျောင်းထိုင်တဲ့ ကော့ကပ်ကြီးရွာနဲ့ နှဲကြိုးရွာကြားကောင်းကင်ပြင်မှာ တောက်ပတဲ့ မီးလုံးကြီးတွေ၊ အလင်းရောင်တန်းတွေ ယှက်သန်း လင်းလက်နေတာ ပရိသတ်အားလုံး တွေ့မြင်ကြရတယ်။

တော်လည်းသံကြီးတွေလဲ ကြားရတယ်။ ဆရာတော်ကို အဝိစျာပန မပြုဖို့ ဆုံးဖြတ်တဲ့နေ့မှာ ခရုစုပ် ငှက်ကြီးတစ်ကောင်ဟာ ကော့ကပ်ကြီး ဘုန်းကြီးကျောင်း ဝင်းအထဲကိုဝင်လာပြီး ဆရာတော်ရဲ့ ရုပ်တုအနီးမှာ အစာမစားဘဲ ၁၀ ရက်လောက် ငြိမ်သက်နေတာကို ရွာသားတွေ အားလုံးတွေ့ကြတယ်။ ၁၀ ရက်ကျော်မှ ပျံသန်းသွားတယ်။

(ကျမ်းကိုး၊ ဝ၊ အောင်ဇေ LL.B နှဲကြိုးရွာမှ စိတ်ဝင်စားစရာများ နတ္တွတ္တရောင်ခြည် မဂ္ဂဇင်း၊ ၁၉၉၀ ခု၊ အောက်တိုဘာလ စာ ၂၇)

အလောင်းတော်ကို ရင်ခွဲခြင်း ဆေးထိုးခြင်း စသော လောကီ အစီအရင်များ လုံးမပြုလုပ်ဘဲ၊ ယခုထက်တိုင် ဧရာဝတီတိုင်းဒေသကြီး မအူပင်ခရိုင်၊ ဓနုဖြူမြို့နယ်၊ နှဲကြိုးရွာလယ်ကျောင်း စံကျောင်းတော်ရှိ အလူမီနီယမ် မှန်ခေါင်းတော်အတွင်း၌ သီတင်းသုံးတော်မူလျက်ရှိသည်ကို ဖူးမြော်ကြည်ညိုနိုင်ကြပါသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ မောင်သန်းဆွေ ကော့ကပ်ကြီး၊ ကော့ကပ်ကြီး + နှဲကြိုးရွာလယ်ကျောင်း၊ ဂျိုးဖြူတောရ ဆရာတော်၊ ဘဒ္ဒန္တ စာရိတ္တာဘိဝံသ၊ ဇလွန်မြို့နယ် မဂ္ဂဇင်း၊ စာ ၅၇ - ၆၀)

(ကျမ်းကိုး၊ ၂၊ အောင်ဇေ LL.B နှဲကြိုးရွာမှ စိတ်ဝင်စားစရာများ နတ္တွတ္တရောင်ခြည် မဂ္ဂဇင်း၊ ၁၉၉၀ ခု၊ အောက်တိုဘာလ စာ ၂၇ )

ပရိတ်ရေဆူ နယ်ခြားတောင်တန်းသာသနာပြု ဆရာတော်ဘုရားကြီး

# အရှင်ဥတ္တမသာရ

**အေဒီ ၁၉၁၀ – ၁၉၉၃ ( ၁၂၇၂ – ၁၃၅၇ )**



တော်ဝင်မိုး



ကျားမကိုက်သူ၊ မုန်တိုင်းကြီးတားသူ၊ မြေပြန့်တလျှောက် ကြွတော်မူသည့် ဆရာတော် ဦးဥတ္တမသာရ၏ မေတ္တာတရားသည် တောင်ပေါ်တောင်အောက် ပြန့်နှံ့လျက်ရှိကြောင်း သိရှိရပါသည်။ ဦးလေးကြီး ဦးတင်မောင်၏ ကောင်းမှုကြောင့် မုန်တိုင်းကြီးနှင့် အရဟံအကြောင်းကိုလည်းကောင်း၊ တတိယကမ္ဘာစစ်ကြီး ဖြစ်မဖြစ်အကြောင်းကိုလည်းကောင်း၊ ဈာန်ပျံတယ်ဆိုတာ ဘယ်လိုလဲဟူသော သဘောသဘာဝကိုလည်းကောင်း သိခွင့်ရခဲ့ပါသည်။

(ကျမ်းကိုး၊ ဦးလေးကြီး ဦးတင်မောင်၊ သင့်ဘဝ မဂ္ဂဇင်း၊ ၁၉၈၅ ခု၊ မတ်လ၊ )

ဆရာတော်ဘုရားကြီး၏ မဟာရုပ်ပုံလွှာကို ရှာကြံပြန်သောအခါ မဟာရုပ်ပုံလွှာအကျဉ်းကို မြတ်မင်္ဂလာ စာစောင်တွင် တွေ့ရှိရပြန်သဖြင့် အကျဉ်းချုပ်အားဖြင့် သိခွင့်ရခဲ့ပါသည်။

(ကျမ်းကိုး၊ မြတ်မင်္ဂလာစာစောင်၊ မင်္ဂလာဗျူဟာ အသင်းမှ ထုတ်ဝေသည်။ ၁၉၉၃ ခု၊ စက်တင်ဘာလ၊ )

၎င်းနောက် ရတနာမွန် အယ်ဒီတာအဖွဲ့ဝင် တစ်ဦးရေးသားသော နယ်ခြားတောင်တန်း သာသနာပြုဆရာတော် ဦးဥတ္တမသာရ၏အကြောင်းကို ဖတ်ရှုရပြန်သောအခါ ပို၍ပို၍ သိခွင့်ရခဲ့ပြန်ပါသည်။

(ကျမ်းကိုး၊ ရတနာမွန် မဂ္ဂဇင်း၊ ၁၉၉၀ ခု၊ ဖေဖော်ဝါရီလ၊ စာ ၄ - ၆)

၎င်းနောက် ဆက်လက် ရှာဖွေပြန်သောအခါ သာသနာတော်၌ ထင်ရှားသော ဆရာတော်ဘုရားကြီးများအကြောင်းကို ဆရာဦးကျော်ထင် ပြုစုရာတွင် တောင်တန်းသာသနာပြု ဆရာတော်ဘုရားကြီး အကြောင်းလည်း သိခွင့်ရပြန်ပါသည်။ ထိုစာအုပ်တွင် အာသဝေါကုန်ခမ်းသော ရဟန္တာဆရာတော်ကြီးများဟု ခေါ်ဝေါ်သမုတ်တော်မူကြသည့် သာသနာတော်၌ ထင်ရှားသော ဆရာတော်ကြီး ၁၉ ပါး ထေရုပ္ပတ္တိကို ဖတ်ရှုရပြန်သဖြင့် ပိုမိုကြည်ညိုရပြန်သည်။

(ကျမ်းကိုး၊ ဆရာ ဦးကျော်ထင်၊ သာသနာတော်၌ ထင်ရှားသော ဆရာတော်ကြီး ၁၉ ပါး ထေရုပ္ပတ္တိ၊ ၂၀၀၄ ခု အောက်တိုဘာ၊ ချိုတေးသံ စာပေ၊ စာ ၁၂၁ )

ဆရာတော် ဦးဥတ္တမသာရမှာ ဖြစ်ရပ်ဆန်း အစုံစုံ အံ့သြဖွယ်အဖုံဖုံတို့ဖြင့် အများပြည်သူတို့ ကြည်ညိုပူဇော်ကြခြင်းကို ခံတော်မူရကြောင်း သိရပါသည်။

ဘုန်းကြီးကို ပျားမတုပ်ပါ ဟူ၍လည်းကောင်း၊ ဘုန်းကြီးကို ခွေးမကိုက်ပါဟူ၍ လည်းကောင်း၊ တောမီးမလောင်ပါ ဟူ၍လည်းကောင်း၊ ရောက်လေရာရာ အရပ်ဒေသတိုင်း လေးကျွန်းသနင်း စကြာမင်းကဲ့သို့ မေတ္တာထားသင့်ကြောင်းကိုလည်းကောင်း၊ ဆရာတော်ကြီးကိုယ်တိုင် ဟောကြားခဲ့သဖြင့် ပွင့်လင်းစွာ ကြည်ညိုခဲ့ရပါသည်။

(ကျမ်းကိုး၊ မေတ္တာစွမ်းအား လက်တွေ့အကျိုးများ၊ စာ ၈၆-၉၂)

**ဖွားသက္ကရာဇ်**

၁၉၁၀ ဆရာတော် အရှင်ဥတ္တမသာရကို အေဒီ ၁၉၁၀ခု၊ ဒီဇင်ဘာလ (၁၂၇၂ ခုနှစ်၊ ပြာသိုလ)တွင် ရွှေဘိုခရိုင်၊ ဒီပဲယင်းမြို့၊ တောင်လက်နယ်၊ ငွေတွင်းကုန်းရွာ ခမည်းတော် ဦးဘိုးညို၊ မယ်တော် ဒေါ်သေးတာတို့မှ ဖွားမြင်သည်။

သာမဏေ ဘဝဖြင့် မုံရွာမြို့၊ ရွှေသိမ်တောကျောင်း တိုက်၌ ၃ နှစ်၊

စစ်ကိုင်းတောင်ရိုး မဟာသမယချောင်၌ ၁၂ နှစ် ပညာသင်ကြားခဲ့သည်။

၁၉၃၀ အေဒီ ၁၉၃၀ ခု (၁၂၉၂ ခု၊) ၁၉ နှစ်နှင့် ၃ လကျော်တွင် ရဟန်းဖြစ်သည်။

ရဟန်းဘဝဖြင့် မန္တလေးအနောက်ပြင် ချမ်းသာကြီး မြောက်တိုက် ရတနာပုံ ပရိယတ္တိကျောင်း၌ ၄ နှစ်ကျော်ခန့် ပညာသင်ရင်း အစိုးရပထမပြန် စာမေးပွဲများ ဖြေဆိုခဲ့သည်။

၁၉၃၅ အေဒီ ၁၉၃၅ ခု (၁၂၉၇ ခုနှစ်)တွင် မန္တလေးမြို့မှ တောင်တန်းဒေသများသို့ ခြေကျင်ခရီး စတင် သာသနာပြုကြွသည်။



အေဒီ ၁၉၃၆ ခု (၁၂၉၈ ခု) အိန္ဒိယနိုင်ငံ အထိရောက်ရှိပြီး ဗုဒ္ဓဝင်ဌာနများသို့ လှည့်လည်ဖူးမြော်ခဲ့သည်။

၁၉၃၈ အေဒီ ၁၉၃၈ ခု ( ၁၂၉၉ ခုနှစ် )၂၇ နှစ်အရွယ်တွင် အိန္ဒိယမှ ပြန်ကြွပြီး မုံရွာ၊ လယ်တီတိုက်၌ ခေတ္တနေ၍ သက္ကတဘာသာဆက်လက် လေ့လာသည်။

၁၉၄၂ ထို့နောက် ပခုက္ကူ မဟာဝိသုတာရာမတိုက်၌ အေဒီ ၁၉၄၂ (၁၃၀၃ ခုနှစ်) အထိ ၄ နှစ်ကျော်ခန့် ပိဋကတ်သုံးပုံနှင့် နိကာယ်ငါးရပ်ကို ပါဠိ၊ အဋ္ဌကထာနှင့် ဋီကာပါတွဲ၍ သင်ယူခဲ့သည်။

ပခုက္ကူ၌နေစဉ် ရုံခါချင်းတောင်သို့ တက်၍ သာသနာပြုကြွသည်။ စစ်ကြိုခေတ်တွင် ပခုက္ကူမှ အမရပူရသို့ရွှေ့ပြောင်း၍ တူမောင်းတိုက်၊ မင်္ဂလာတိုက်ဟောင်း ဆရာတော်များထံတွင် ပဋ္ဌာန်းညဝါကျမ်းစာများ သင်ယူသည်။

စစ်ပြီးကာလတွင် ရန်ကုန်၊ ကမာရွတ် ဥသြခြံ ဝါဆိုကျောင်းနှင့် လှိုင်မြစ်လမ်း အောင်ချမ်းသာကျောင်းတို့၌ စာပေပို့ချခြင်း၊ စာစစ်ခြင်းနှင့် အင်းစိန်၊ ကမာရွတ်၊ သမိုင်း ၃ မြို့နယ်၏ ဝိနည်းဓိုရ်အဖြစ် ဆောင်ရွက်ခဲ့သည်။

ဒုတိယကမ္ဘာစစ်အပြီးတွင် မြန်ပြည်အနှံ့ တောင်တန်းဒေသများသို့ တစ်ပါးတည်း သာသနာပြုကြွခဲ့သည်။ အိန္ဒိယနိုင်ငံ၊ အာသံ၊ မဏိပူရနယ်များသို့ လည်းကောင်း သာသနာပြုရောက်ခဲ့သည်။ အာရှ ဥရောပနိုင်ငံများသို့လည်း ကြွရောက် သာသနာပြုခဲ့သည်။ မြန်မာနိုင်ငံ တစ်ဝန်းတစ်လျားသို့လည်း လှည့်လည်သာသနာပြုခဲ့သည်။

၁၉၉၄ အေဒီ ၁၉၉၄ ခု၊ (၁၃၅၆ ခုနှစ် ) သက်တော် ၈၄ နှစ်၊ ဝါတော် ၆၅ ဝါရှိသော်လည်း မျက်စိမမှုန်၊ နားမထိုင်း၊ သွားမကျိုး၊ ဆံမဖြူ၊ အသားအရေ ကြည်လင်သည်။

ပြုစုတော်မူသောကျမ်းများမှာ (၁) ချင်းရာဇဝင်၊ (၂) တောင်တန်းတရား၊ (၃) ရဟန်းဘဝချမ်းသာ၊ (၄)ချမ်းမြေ့စွာ ဘဝနေနည်း၊ (၅) ကိုယ်တွေ့ခရီးသွားမှတ်တမ်း စသည်တို့ဖြစ်သည်။

(ကျမ်းကိုး။ အထက်ပါ အနှစ်ချုပ် မှတ်တမ်းကို မြတ်မင်္ဂလာစာစောင် ၁၉၉၃ ခု၊ စက်တင်ဘာလ၊ စာ ၁ တွင် တွေ့ရှိရပါသည်။)

(ကျမ်းကိုး။ နယ်ခြား တောင်တန်းသာသနာပြု ဆရာတော် ဦးဥတ္တမသာရ၏ ဘဝတစ်ဓေ့တစ်စောင်းတွင် ပထမဦးစွာ ကျွန်ုပ်စုဆောင်းသော အချက်အလက်များကို ၁၉၉၀ ပြည့်၊ ဖေဖော်ဝါရီလ ရတနာမွန်မဂ္ဂဇင်း စာ ၄- ၅- ၆ မှ ရရှိပါသည်။ ၎င်းနောက် ဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကို စုဆောင်းရာတွင် မင်္ဂလာ ဦးအောင်မြင့်၏ မေတ္တာစွမ်းအားစာအုပ်ပါ နိဒါန်းအရလည်း မသိသေးသည်များကို သိရပါသည်။)

၎င်းအပြင် ဆရာတော်ကြီး ကိုယ်တိုင် ဟောကြားတော်မူသော တရားတော်များမှာလည်း အံ့ဖွယ်ဖြစ်ရပ်ဆန်းများကို ကြားနာဖတ်ရှုရပါသည်။

၁၉၈၅ ဦးစွာ ပထမ ဆရာတော်အကြောင်းကို ဝါဒဖြန့်ရာတွင် ကျွန်ုပ်အစွဲအလမ်းဆုံး စာတစ်ပုဒ်မှာ ဦးလေးကြီး ဦးတင်မောင်၏ သင့်ဘဝ မဂ္ဂဇင်း ၁၉၈၅ ခု၊ မတ်လ စာမျက်နှာပါ ကျားမကိုက်သူ မုန်တိုင်းကြီးတားသူ မြေပြန့်တစ်လျှောက် ကြွတော်မူသည့် ဆရာတော် ဦးဥတ္တမသာရ၏ မေတ္တာအကြောင်း ဆောင်းပါးဖြစ်ပါသည်။

ရင်ထဲတွင် အလွန်နှစ်သက် စွဲလမ်းသွားအောင် ရေးနိုင်စွမ်းရှိပါပေသည်။ ထိုဦးလေးကြီး ဦးတင်မောင်သည်ပင်လျှင် ကောင်းကင်ပျံ ဆင်ဖြူများအကြောင်း စာအုပ်ဖြစ်သော အလင်းဆောင်သူများ၏ အတွေ့အကြုံစာအုပ်ကို ရေးသားသူလည်း ဖြစ်နေပြန်ပါသည်။ ထိုအချက်တို့ကို ပေါ်လွင်အောင် ဦးတင်မောင်သည် ရေးနိုင်စွမ်းရှိပေသည်။ ဆရာတော်ကြီး ကိုယ်တော်တိုင်ကလည်း အံ့သြမကုန်နိုင်



လောက်အောင် ကြည်ညိုဖွယ်ဖြစ်ပါတော့သည်။

(ကျမ်းကိုး၊ ဆရာတော်ကြီး အကြောင်းကို ၁၉၉၀ ဖေဖော်ဝါရီလထုတ် ရတနာမွန် မဂ္ဂဇင်း စာ၊ ၄၊ ၅၊ ၆ တို့တွင်လည်း ဖတ်ခဲ့ရပါသည်။)

ဆရာတော်ကိုယ်တိုင် တောင်တန်းသာသနာပြုတရားများကို ဟောကြားတော်မူခဲ့ပါသည်။ ထိုအချက်များမှ မှတ်သားဖွယ်ရာများ တခမ်းတနား ပါရှိခဲ့ပါသည်။ အောက်တွင် ဖတ်ကြည့်ပါ။

ဈာန်ပျံတယ်ဆိုတာ နှစ်မျိုးရှိတယ်ဟု ဆရာတော်က ရှင်းပြသွားသည်။ လူသူအပေါင်းမြင်ကြရအောင် ကောင်းကင်မှာ ဈာန်ပျံပြတာကတစ်မျိုး၊ ဘုရားလက်ထက်တော်က ကောင်းကင်ပျံပြတာမျိုးရှိခဲ့ဖူးတယ်။ ယခုခေတ်မှာက ကွေးသောလက်ဆန့်လိုက်သကဲ့သို့ လိုရာသို့ရောက်သွားတဲ့ ဈာန်ပျံနည်းဟာ မမြင်နိုင်တဲ့ဈာန်ပျံခြင်းဖြစ်တယ်။

ရွှေဘိုနယ်မှာ တောထွက်ကိုယ်တော်ကြီးတစ်ပါးရှိတယ်။ သူ့ဆွမ်းသူခံစားတယ်။ လူတွေနဲ့မရောဘူး။ တရားထိုင်တယ်။ လူတွေက သူ့ကို မလေးစားဘူး။ သူကတော့ လူနဲ့မရောနှောရလေ သဘောကျလေပဲ။ တစ်နေ့ သူ့ကျောင်းအနီးမှာ လယ်ထွန်နေတဲ့ လယ်သမားတစ်ဦးက ကိုယ်တော်ကြီးကို လှမ်းမေးတယ်။ အရှင်ဘုရား ဘယ်ကို ဆွမ်းခံကြွမလို့လဲ ကိုယ်တော်ကြီးကနှုတ်ဖြင့်မဖြေဘူး သူကြွမည့်နေရာကို လက်ညှိုးထိုးပြတယ်။

ဒါနဲ့ လယ်ထွန်နေသူက ပြောတယ်။ နေကလဲမြင့်ပြီ ကိုယ်တော်ကြီးကြွမည့်ရွာကလည်းအဝေးကြီးပါလား။ လယ်ကွင်းပြင်ကျယ်ကြီးမှာ သစ်ပင်အုပ်စုနဲ့ ရွာကလေး။ ဆွမ်းဘုဉ်းပေးအမီ ကျောင်းပြန်ရောက်နိုင်ဖို့ အကြောင်းမရှိပါဘူးဟုဆိုပြီး ထွန်ကိုဆက်မောင်းမြဲ မောင်းသွားတယ်။ တစ်ဖက်ကန်သင်းသို့ ထွန်ရောက်လို့ ပြန်လှည့်လာတဲ့အခါမှာ ကိုယ်တော်ကြီးကို မဖူးတွေ့ရတော့ဘူး။ ဒါနဲ့ သူထွန်ဖြုတ်ပြီး အပြန်ကျောင်းဆီလှမ်းကြည့်တော့ ကိုယ်တော်ကြီးဟာ ဆွမ်းစားပြီးလို့ သပိတ်ကိုတောင်ဆေးမှောက်ထားပြီ။

နောက် တစ်ပါးကတော့ သုသာန်မှာ တစ်ပါးတည်း ကြွသွားပြီး တရားအားထုတ်နေတဲ့ ပုဂ္ဂိုလ်ပဲ။ မိုးတွေ ရွာလာတော့ အဲဒီကိုယ်တော်အပေါ် မိုးတစ်ပေါက်မှ မကျဘူး။ မြင်တဲ့ ဒကာတစ်ဦးက ဆောင်းဖို့ ထီးသွားပေးတယ်။ ထီးကိုတော့ ယူလိုက်ပါတယ်။ မိုးကတော့ သူ့ကိုမစိုဘူး။

ဆရာမွှေယောသက ဦးမောင်မောင်၏အိမ်မှာ တရားဟောတုန်းက အာနာပါနကမ္မဋ္ဌာန်းအကြောင်း ဟောကြားတော်မူရာတွင် ဆရာတော်က ထွက်သက်ဝင်သက်ကိုမှတ်ရင်း အရောင်အလင်းကြီး ပေါ်လာကြောင်း၊ အလင်းကြီးသည် ဆရာတော် ခြုံထားသော စောင်ကိုးထပ်ကို ဖောက်ပြီး ထွက်သွားကြောင်း ထိုနောက်ကျောင်းသို့ လာသော ဒကာအချို့က ဆရာတော်၏ ကျောင်းအထက်တွင် ညတုန်းက အလင်းရောင်ကြီး ထိုးထွက်နေတာ မြင်ရတယ်လို့ လျှောက်ထားကြကြောင်း ဆရာတော်က မိန့်တော်မူသည်။

ထို့နောက် ပရိသတ်ဘက်သို့လှည့်၍ ဆရာတော်က အဲဒါဘာထင်သလဲဟု မေး၏။ စာရေးသူက ဆရာတော်ကို ပြန်လျှောက်လိုက်သည်။ စောင်ကိုးထပ်ကို ဖောက်ထွက်သွားတဲ့ အလင်းကြီးဖြစ်မှာပေါ့ဘုရား။ ဆရာတော်က ဆက်လက် မိန့်ကြားတော်မူသည်။



စျာန်ပျံတယ်ဆိုတာ အဲဒီအလင်းကြီးနောက်သို့ ကိုယ်ခန္ဓာ အတ္တဘောပါ ပါသွားတယ်။ သို့သော် ဆရာတော်က သူစျာန်ရနေလျှင် သူများကား ကပ်စီးနေမည် မဟုတ်ခဲ့ဟုလည်း မိန့်တော်မူသွားပါသည်။ ဆရာတော်က ကျားအကြောင်းလည်း မိန့်တော်မူလေသည်။

တချို့က ဘုန်းကြီးကို ဆရာတော် ဦးဥတ္တမသာရကိုမေးတယ်။ ချင်းတောင်မှာ သီတင်းသုံးနေတာကြာပြီ။ ဆရာတော်ကို ကျားမကိုက်ဘူးဆိုတာတဲ့။ မှန်တယ် ဘုန်းကြီးကို ကျားဘယ်တော့မှမကိုက်ဘူး။ ညမှောင်မှောင်မှာ တစ်ပါးတည်း တောတောင်ထဲသွားပြီးနေတာပဲ။ ဘုန်းကြီးရဲ့ ကျောင်းနောက်ဘက်က တောထဲမှာဆိုရင် ကျား ၁၈ ကောင် လောက်ရှိတယ်လို့ ပြောကြတယ်။ ဘုန်းကြီးကျောင်းသို့လာတဲ့ သူတစ်ဦးက လက်ညှိုးထိုးပြတယ်။ ဒီမှာဆရာတော် ကျားခြေရာကြီး။

ခြေရာသာတွေ့ရတယ်။ ကျားက ဘုန်းကြီးမြင်အောင်တောင် မပြဘူးဟု ဆရာတော်က မိန့်တော်မူသည်။

(ကျမ်းကိုး။ ၁၉၈၅ ခု ဇန်နဝါရီလ ၃၀ ရက်နေ့ညက ရန်ကုန်မြို့ အာဇာနည် ဗိမာန်လမ်း မင်္ဂလာဗျူဟာ အသင်းတိုက်တွင် ဆရာတော်ကိုယ်တိုင် ဟောပြောချက်)

ယနေ့အထိ ဆရာတော်သည် သားရဲတိရစ္ဆာန်များဘေးနှင့် မတွေ့ကြုံရသည်မှာ ဆရာတော်၏ မေတ္တာကမ္မဋ္ဌာန်းကြောင့်ပင် ဖြစ်ပေသည်ဟု ပညာရှင်များ မိန့်ဆိုကြပါသည်။

## မုန်တိုင်းကြီးနှင့် အရဟံ

ပုသိမ်မှာ မုန်တိုင်းကြီး မွှေသွားပြီးသည့် နောက်နှစ်များတွင် ဆရာတော် ဦးဥတ္တမသာရ အရှင်သည် ပုသိမ်၏ အနောက် အိန္ဒိယသမုဒ္ဒရာမှာ မုန်တိုင်းကြီး ဖွဲ့နေပြီဟု ကြားရသည်နှင့်တစ်ပြိုင်နက် ထိုမုန်တိုင်း ဖွဲ့ရာအရပ်ဆီသို့ စိတ်ဖြင့်မှန်းမျှော်ပြီးလျှင် ထိုမုန်တိုင်း၏ မျက်စိထဲမှာ ဆရာတော်ထိုင် လိုက်သည်။ ပြီးလျှင် အရဟံ အရဟံ အရဟံ အရဟံဂုဏ်တော်ကို အဓိပ္ပာယ်သုံးမျိုး ခွဲခြားကာ ဆရာတော်ပွားများတော်မူပုံကို အောက်ပါအတိုင်း သိရှိရပါသည်။

နောက်တစ်နေ့ ထိုမုန်တိုင်းကြီးကျောက်ဖြူဘက် ရွေ့လာပြီဆိုလျှင် ထိုမုန်တိုင်းသွားရာသို့စိတ်ဖြင့် ဆရာတော်လျှောက်လိုက်သည်။ ထိုမုန်တိုင်း အိန္ဒိယကမ်းခြေသို့ တက်သွားပြီဆိုလျှင်လည်း ထိုအရပ်သားများကိုလည်း ဘေးမသီ ရန်မခပါစေနှင့်ဟု မုန်တိုင်းအလယ်မှာထိုင်လျက် ဆရာတော်မေတ္တာပို့၏။ နောက်ဆုံး မုန်တိုင်းကြီး ပြယ်သွားသည်အထိပင်။

မုန်တိုင်းကြီးကို အရဟံဂုဏ်တော်ဖြင့်ခွင်းသော ဤတရားကို ရန်ကုန် ရေကျော်ရပ်၊ မဟာဗျော လမ်းမွှေ့ရုံကြီးတွင် စာရေးသူ နာကြားခဲ့ရပါသည်။

သက်တော် ၇၅ နှစ် ရှိပြီဖြစ်သော တောင်တန်းသာသနာပြုဆရာတော် အရှင်မြတ်ကမူ စာရေးသူတို့ကဲ့သို့ စိတ်ဒွိဟမရှိ၊ ပြတ်သားလှသည်။ တတိယ ကမ္ဘာစစ်ကြီး မဖြစ်စေရဘူး၊ ရဲရဲကြီးကတိပေးသွားတော်မူသည်။ ယင်းသို့ မိန့်တော်မူသွားသည့် နေရာမှာ မဟာဗျော လမ်း မွှေ့ရုံအဖွဲ့သားများနှင့် အရပ်သူအရပ်သားများတို့ စုပေါင်း၍ ဆရာတော် နှစ်ပေါင်း ၅၀ ကျော်မျှ တောင်တန်း သာသနာပြုတော်မူခဲ့သည့် ကျေးဇူးကိုဆပ်သည့်အနေနှင့် ပူဇော်ကြခြင်းဖြစ်လေသည်။ ထိုပူဇော်ပွဲတွင် ဆရာတော်က မြန်မာပြည်သာသနာ ဘယ်တော့မှ မတိမ်ကောဘူးဟု အားရပါးရ ထပ်မံ မိန့်တော်မူသွားသည့်ပြင် စျာန်ပျံခြင်း အကြောင်းများကိုလည်း သာဓကများနှင့်



မိန့်တော်မူသွားလေသည်။

(ကျမ်းကိုး။ ဦးလေးကြီး ဦးတင်မောင်၏ သင့်ဘဝ မဂ္ဂဇင်း ၁၉၈၅ ခု)

အထက်ပါ စာမှာ သင့်ဘဝ ဦးလေးကြီး ဦးတင်မောင်၏စာ ဖြစ်ပါ၏။ သင့်ဘဝ ဦးလေးကြီး ဦးတင်မောင်၏ အရေးအသားကောင်းမှုကြောင့် ဆရာတော်ကြီးအား လွန်စွာကြည်ညိုမိပါသည်။ ထို့ကြောင့် ထေရုပ္ပတ္တိရုပ်ပုံလွှာကို သိသင့်သလောက် သိခဲ့ရပါသည်။

၁၉၉၀ ထိုနှစ်က ဆရာတော်ကြီးသည်အေဒီ ၁၉၉၀ ခု၊ (၁၃၅၂ ခုနှစ် ) သက်တော် ၈၀၊ ဝါတော် ၆၁ သို့ ရောက်ပြီဖြစ်ပါသည်။ မှတ်မှတ်ရရအားဖြင့် မွေးနေ့မင်္ဂလာကို ဓနုဖြူမြို့နယ်၌ ကျင်းပခဲ့သည်ဟု သတင်းရခဲ့ပါသည်။

ဆရာတော်ကြီး၏ ဖြစ်စဉ်မှာ အောက်ပါအတိုင်းဖြစ်၏။ ရတနာမွန် အယ်ဒီတာအဖွဲ့ဝင်တစ်ဦး ရေးခဲ့ခြင်းဖြစ်ပါ၏။ စေ့စပ်လှပါ၏။

၁၉၁၁ ရွှေဘိုခရိုင်၊ ဒီပဲယင်းမြို့ တောင်လက်၊ ငွေတွင်းကုန်းရွာ၌ အေဒီ ၁၉၁၁ ခု၊ ဇန်နဝါရီ (၁၂၇၂ ခုနှစ်၊ ပြာသိုလ)တွင် ခမည်းတော်ဦးဘိုးညို မယ်တော် ဒေါ်သေးတာ တို့၏ သားသမီး ၆ ယောက်တွင် အငယ်ဆုံးဖြစ်သည်။

မုံရွာမြို့ ရွှေသိမ်တော်ကြီးတိုက်၊ မဟာလယ်တီတိုက်၊ စစ်ကိုင်းတောင်ရိုး မဟာသမယချောင်၊ မန္တလေးချမ်းသာကြီးမြောက်တိုက်၊ အမရပူရ တူးမောင်းတိုက်၊ ပခုက္ကူ မဟာဝိသုတာရာမတိုက်ကြီးတို့၌ ပညာဆည်းပူးခဲ့သည်။

၁၉၃၅ ၆ ဝါရ၊ အေဒီ ၁၉၃၅ ခု(၁၂၉၇ ခုနှစ်) ပဥ္စင်းငယ်ဘဝကပင် ပညာသင်ရင်း ချင်းတောင် တောင်ပိုင်းဒေသများသို့ လှည့်လည် စမ်းသပ်လေ့လာလျက် သာသနာပြု ခရီး စတင်ခဲ့သည်။

၁၉၃၆ အေဒီ ၁၉၃၆ ခု (၁၂၉၈ ခုနှစ်)တွင် ခရိုင်တောင်တန်းတစ်ခုတွင် ကုန်းကြောင်းလှည့်လည်လေ့လာပြီး စစ်တကောင်းမှ အိန္ဒိယသို့ဆက်ကြွကာ ဗုဒ္ဓဝင်ဌာနများကို ၆ လခန့် လှည့်လည်ဖူးမြော်သည်။ ထိုအချိန်မှစ၍ သက္ကတဟင်ဒီ အင်္ဂလိပ်စာများကိုလည်း လေ့လာသင်ယူခဲ့သည်။

ပခုက္ကူ ဆရာတော်ကြီးများ အမိန့်နှင့် ချင်းတောင်တောင်ပိုင်း၌ စစ်မဖြစ်မီကပင် သိမ်သမုတ်ခြင်း၊ ချင်းလူငယ်များအား ရှင်ပြုပေးခြင်း ကိစ္စများကို ကူညီခဲ့ရသည်။ ဒုတိယကမ္ဘာစစ်ပြီးစ ရန်ကုန်မြို့ ကမာရွတ် ဥဩဖြံ့ ဝါဆိုကျောင်းနှင့် လှိုင်မြစ်လမ်း အောင်ချမ်းသာကျောင်း၌ ၆ နှစ်ခန့် သီတင်းသုံး၍ အင်းစိန်၊ ကမာရွတ်၊ သမိုင်း ၃ မြို့နယ် ဝိနည်းမှုရ တာဝန်နှင့် စာမေးပွဲ တာဝန်ခံအဖြစ် တာဝန်ယူ၍ စာသင်သားများအား စာချပေးခဲ့သည်။

၁၉၄၅ အေဒီ ၁၉၄၅ ခု၊ ဧပြီလ (၁၃၀၈ ခုနှစ် တန်ခူးလ)တွင် ချင်းတောင် တီးတိန်နှင့် နာဂတောင်တန်းများသို့ တစ်ပါးတည်းဦးစွာကြွပြီး ဌာနေဖြစ်သော စော်ဘွားကြီးများ အင်္ဂလိပ် အရေးပိုင်များ တောင်အုပ်သူကြီးများနှင့် လှည့်လည်ဆွေးနွေး၍ သာသနာပြုရန် ဌာနများ စီမံလျာထားသည်" နောက်တစ်နှစ် နတ်တော်လတွင် နောက်ပါ သံဃာ ၄ ပါး ခေါ်ဆောင်၍ မည်သူ့ အကူအညီမှ မယူဘဲ သာသနာပြု ဌာနကျောင်းများ ဖွင့်လှစ်ခဲ့သည်။

ချင်းနှင့် နာဂတိုင်းရင်းသားများ ဗမာဘုန်းကြီးဆိုသည်ကို ပထမဆုံး တွေ့မြင်ရခြင်းဖြစ်၍ အံ့ဩကြသည်။ နေဝင်ရိတရော သာသနာပြုခရီးကြွစဉ် သားကောင်ထင်မှတ်၍ သေနတ်အပစ်ပင်ခံခဲ့ရသေးကြောင်း စာပေဗိမာန်ထုတ် အလင်းဆောင်သူများ



အတွေ့အကြုံ စာအုပ်၌ ဖတ်ရှုရပါသည်။

၁၉၄၇ အေဒီ ၁၉၄၇ ခု (၁၃၀၉ ခုနှစ်) လွတ်လပ်ရေး မရခင်ကတည်းက မြေပြန့်၌ ဝါ မဆိုတော့ချေ။ ရခိုင်တောင်တန်း၊ ချင်း၊ နာဂ၊ ကယား၊ ဟူးကောင်းတောင်ရိုးအနှံ့ လှည့်လည်တော်မူ၍ တပည့်များလည်းမွေးကာ တောင်ပေါ်မှာချည်း သီတင်းသုံးခဲ့သည်မှာ နှစ်ပေါင်း ၄၀ ကျော် သာသနာပြုသက်နှစ်ပေါင်း ၅၀ ကျော်လေပြီ။

လွတ်လပ်ရေး ခေတ်ကြိုကာလတွင် ပြည်မနှင့်တောင်ပေါ်သားများ သွေးစည်းမှုကို နိုင်ငံရေးအရ အထူးလိုအပ်နေချိန်တွင် ဆရာတော်သည် ကြိုတင်၍ လုပ်ဆောင်နှင့်ပြီးဖြစ်နေခဲ့၏။

၁၉၄၈ အေဒီ ၁၉၄၈ ခု၊ ဇန်နဝါရီ (၁၃၀၉ ခု၊ ပြာသိုလ) လွတ်လပ်ရေးနေ့တွင် ဖလမ်းမြို့၌ လွတ်လပ်ရေးစေတီနှင့် သိမ်တစ်ဆူကို အမှတ်တရ တည်ထားနိုင်ခဲ့လေသည်။

(ကျမ်းကိုး၊ ရတနာမွန် မဂ္ဂဇင်း၊ ၁၉၉၀ ခု၊ ဖေဖော်ဝါရီလ၊ စာ ၄ - ၆)

လွတ်လပ်ရေး ရပြီးနောက် ဆဌသင်္ဂါယနာတင်သောအခါ ဩဝါဒစရိယအဖြစ် တာဝန်ယူ၍ တောင်တန်းသာသနာပြုလုပ်ငန်းကိုလည်း ဗုဒ္ဓသာသနာအဖွဲ့ တောင်တန်းသာသနာပြုအဖွဲ့တို့၏ တာဝန်ပေးချက်အရ နှစ်အတန်ကြာ ဆောင်ရွက်ပေးခဲ့သည်။ အဖွဲ့အစည်းနှင့် လုပ်ရသည်ဖြစ်၍ အမိန့်ခံခြင်း၊ အစီရင်ခံခြင်း အရည်အချင်းမရှိသော ရဟန်းငယ်များကို အုပ်ချုပ်ရခြင်း စသည်တို့ဖြင့် ငြီးငွေ့ကာ နှစ်ပေါင်း ၅၀ ခန့် လွတ်လွတ်လပ်လပ် ကိုယ်စိုးကိုယ်ပိုင် တစ်နိုင်သာသနာပြု အလုပ်ကိုသာ စောက်ချ လုပ်တော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅)

မဏိပူရနှင့် အာသံပြည်နယ် သာသနာကိုလည်း ကိုယ်တော်တိုင် ၂ ကြိမ်ကြွကာ ဦးဆောင်မှုပေးခဲ့၏။ ဆရာတော်သည် ငယ်စဉ်ကပင် စာရေးဝါသနာကြီး၍ သူရိယ မြန်မာ့အလင်းစသော သတင်းစာမဂ္ဂဇင်း မျိုးစုံ၌ စာရေးခဲ့သည်။

**သာယာဝတီ စိန်စိန်၏ ရိုးမတောင်ကြီးကိုသာ ဖြိုလိုက်ချင်တော့ အမျိုးသားစာပေဆုရ ချင်းဗမာချစ်ကြည်ရေးဝတ္ထုကြီးမှာ ဆရာတော်ကြီး၏ ငယ်စဉ်က လက်ရာဖြစ်ကြောင်း အဆိုပါ ချင်း ဗမာ ချစ်ကြည်ရေး ဂန္ထဝင်ဝတ္ထုကြီးကို ရွှေသမင်စာအုပ်တိုက်မှ ထုတ်ဝေရန် စီစဉ်လျက်ရှိကြောင်း သိရှိရပါသည်ဟု စာတွင်တွေ့ရပါသည်။**

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅)

ဆရာတော်ကြီးသည် လွန်ခဲ့သော သုံးလေးနှစ်က စပြီး ဆောင်းရာသီတိုင်း မြေပြန့်သို့ ကြွကာ မီးဘေးအန္တရာယ်များ ပရိတ်မေတ္တာဖြင့် အကာအကွယ်ပေးလျက်ရှိရာ အထူးအောင်မြင်လျက်ရှိသည်ဟု ကြားသိရပါသည်။ ဆရာတော်ကြီး ရောက်လေရာ၌ ပရိတ်ရေ၊ ပရိတ်ဆီများ ဆူဝေလျှံကြခြင်း ထိုရေ ထိုဆီတို့ကို သုံးစွဲရသဖြင့် ရောဂါမျိုးစုံ ပျောက်ကင်းခြင်း စသည်ဖြင့် ကျော်ကြားလျက်ရှိရာ မသိမလိမ္မာသူ အချို့က ဆရာတော်ကြီးအား ဂိုဏ်းဆရာ၊ ပျောက်စေဆရာလိုသဘောထားနေသည်ဟုလည်း ကြားသိမိရရာ အလွန်ဝမ်းနည်းစရာ ကောင်းပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆)

ချမ်းမြေ့စွာ ဘဝနေနည်း စာအုပ်တွင် ဆရာတော်ကြီး၏ ဖွဲလုံ့လနှင့် သီလမေတ္တာ ထူထောင်ရေး နည်းပေးထားသည်မှာ အလွန်ရှင်းလင်းလှပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆)



သတ္တိဗလ၊ စွမ်းပကာနှင့် ပြည့်စုံ၍ သားရဲတိရစ္ဆာန်တို့အကြား၊ ယဉ်ကျေးမှု မဖွံ့ဖြိုးသေးသော လူတို့အကြား တစ်ကိုယ်ရေ တစ်ကာယဖြင့် သွားနေသော ကိုယ်တော်ကြီးအား အခြားသူတို့ကို မဆိုထားဘိ၊ မင်္ဂလာတို့သည်ပင် အဆောင်ကောင်း တစ်ခုခုတော့ ဧကန်ရှိမည်ဟု ယုံကြည်ပြီး ဖြစ်ခဲ့သည်မှာ ကြာပါပြီဟု မင်္ဂလာဦးအောင်မြင့်က ရေးခဲ့ပါသည်။

ကိုယ်တော်ကြီးအား တစ်ဖက်သားကို လှည့်စားတတ်သော အလေ့ ဝါသနာ မရှိ လောကီဆိုင်ရာ အမှုအကျင့်တို့ကို ကျင့်သုံးလေ့မရှိ ဆွမ်းတစ်ယောက် မရလျှင် တစ်နေ့အဖို့ မျှတတတ်သူ အခြေနှစ်ချောင်း ရပ်နိုင်သရွေ့ သွားလိုရာကို အရောက်သွားနိုင်သော သတ္တိရှိသူ ပုဂ္ဂိုလ်ထူးကြီးဟု အရည်ဝါသီ ပုဂ္ဂိုလ် အလားပင် ယုံကြည်ခဲ့ပါသည်။ သို့ပါသော်လည်း အဆောင်ကောင်းတစ်ခုတော့ မုချရှိရမည်ဟု မင်္ဂလာဦးအောင်မြင့်က ရေးခဲ့ပါသည်။

(ကျမ်းကိုး၊ ကိုယ်တော်ကြီး၏ ကိုယ်တွေ့မှတ်တမ်း ဒုတိယတွဲ စာအုပ် တစ်အုပ် စာတိုက်မှ ၁၃၄၄ ခု တော်သလင်းလဆန်း ၁၂ ရက် နေ့စွဲဖြင့် ရောက်လာ၍ ဖတ်ရမှပင် ကိုယ်တော်ကြီး၏ တစ်သက်တာ အဆောင်ကောင်း အဖိုးတန်ကို သိရပါပြီဟု မင်္ဂလာ ဦးအောင်မြင့် ရေးသားခဲ့ပါသည်။ စာ၊ ၈၅၊ ည)

တောင်တန်းသာသနာပြု ဆရာတော်ဘုရားကြီးသည် သစ္စာအဓိဋ္ဌာန် မေတ္တာအဓိဋ္ဌာန်တို့ဖြင့် ၇ ရက်သားသမီးတို့အား ကယ်တင်ပုံတို့မှာ လွန်စွာကြည်ညိုဖွယ်ရာ ကောင်းလှပါသည်။ ကိုယ်တော်တိုင် ကိုယ်တွေ့ ပြောကြားခဲ့ပုံများမှာ ဖတ်ရှု၍ ကြည်ညိုဖွယ်ရာ ဖြစ်ပါသည်။ အောက်တွင်ကြည့်ပါ။

ရောဂါဝေဒနာ ခံစားနေရရှာသော အဘိုးအိုကြီးတစ်ဦးကို တွေ့မြင်နေစဉ် သနားကရုဏာ ထက်သန်စိတ်ဖြင့် မသေပါစေလင့်၊ ငါ၏မေတ္တာနှင့် ကရုဏာစွမ်းကြောင့် ထိုရောဂါဝေဒနာမှ အမြန်ပျောက်ကင်းပါစေသတည်းဟူ၍ မိဋ္ဌာန်ရာ ရောဂါသည် မသေပါ၊ ပြန်လည် ကျန်းမာပုံတွေ့ရတတ်သည်။

လူ့လောကကြီး ကောင်းကျိုးချမ်းသာရေးအတွက် မိုးသည် ထက်ဝန်းကျင် တစ်ဖြိုးညီစွာ ရွာသွန်းပါစေသတည်းဟူ၍ သစ္စာမိဋ္ဌာန် စကားဆိုပြီး မိုးရွာစေသော (မစ္ဆရာဇပရိတ်)ကို (၇)ခေါက် ရွတ်ဆိုလျှင် မိုးရွာသည်။ ဤကား နမူနာအဖြစ် ဥပမာပြခြင်းဖြစ်သည်။

ဤကဲ့သို့ သစ္စာဆို၍ လက်တွေ့အောင်မြင်မှုရနေသော ရဟန်းပုဂ္ဂိုလ်မြတ်သည် အချိန်ကာလမရွေး မိုးကိုရွာစေနိုင်သည်။ ဒေသမရွေး မီးလောင်ခြင်းဘေးကို စိတ်ချလောက်အောင် ကာကွယ်ပေးနိုင်သည်၊ ပင်လယ်မှလာသော လေမုန်တိုင်းဘေးကို တားဆီးကာကွယ်နိုင်သည်။

ထိုနည်းတူစွာ လူ့လောက လူအများက ကြောက်ရွံ့နေလေ့ရှိကြသော ဘေးရန် အန္တရာယ် အမျိုးမျိုးကိုလည်း မဖြစ်ပေါ်မီ ကြိုတင်၍ တားဆီးကာကွယ် ပေးနိုင်စွမ်းရှိသည်မှတ်ပါ။

ဤအရှင်သည် သမထ ကမ္မဋ္ဌာန်းလေးဆယ်တွင် မိမိနှစ်သက်၍ မြတ်နိုးသော ကမ္မဋ္ဌာန်းနှင့် ကရုဏာကမ္မဋ္ဌာန်းကို စွဲမြဲပြီးအားထုတ်သည်၊ နှစ်ပေါင်းများစွာ အချိန်ကြာကြာ ဖြန့်ပွား၍နေလာခဲ့သည်။ မေတ္တာဘာဝနာ ကရုဏာဘာဝနာ တရားမြတ်တို့နှင့်သာ အခါခပ်သိမ်းပျော်မွေ့လာခဲ့သည်။

တစ်နည်းအားဖြင့် မေတ္တာ သမာဓိ ဈာန် ကရုဏာ သမာဓိ ဈာန်ကို အခြေခံယူ၍ သစ္စာဆိုခြင်းပြုသည်။ အချိန်ယူနိုင်သမျှ မေတ္တာနှင့်ကရုဏာ သမာဓိဈာန်ကို



အခါခပ်သိမ်းဝင်စား၍ အလွယ်ရနိုင်သည်၊ ရနိုင်သောကြောင့် ထိုသမာဓိစွမ်းအားကို အခြေခံယူ၍ မိုးကိုရွာစေနိုင်သည်။ မီးဘေးကို တားဆီးပေးနိုင်သည်။ လူတို့၏အပေါ် ကျရောက်မည့် ဘေးရန်အန္တရာယ်ကို မလာရောက်စေရန် တားဆီးပေးနိုင်သည်။ ထိုအကြောင်းကို လက်တွေ့ သိမြင်ကြပြီးဖြစ်သည်။

ဤအရှင်သည် နှစ်ပေါင်းကြာမြင့်စွာ တောတောင်ကြီးတို့အပေါ်၌ နေထိုင်သွားလာရင်း နေ့စဉ်ဝတ်မပျက်စေဘဲ ပရိတ်ကြီး(၁၁)သုတ်ကို ပုံမှန်ရွတ်ဆို၍ နေလာခဲ့သည်။ ရံခါတစ်နေ့နှင့် တစ်ညအတွင်း အကြိမ်များစွာ အခေါက်ပေါင်းများစွာ ရွတ်ဆိုလျက် နေထိုင်လာခဲ့သည်။ တောကြီးတောင်ကြီးထဲ၌ ပရိတ်ရွတ်ဆို၍ နတ်များကို အမျှဝေ၍ တစ်ပါးတည်း နေရခြင်းကို အလွန်ပျော်မွေ့သည်။ ထိုကဲ့သို့ တစ်ပါးတည်း နေထိုင်ခဲ့ခြင်း အချိန်ကြာခဲ့၍ လူထူထပ်သော မြို့ကြီးတို့၌ ပျော်မွေ့ခြင်း မရှိတော့ပါ။

အဆိုပါ အထုံပါရမီ ရှိထားခြင်း ဘဝနောက်ခံအဖြစ် ကြီးမားသော အကြောင်းရှိထားသောကြောင့် ဤအရှင်၏ ပရိတ်တန်ခိုးထက်မြက်နေခြင်း ဖြစ်မည်ဟူ၍ ဆိုနိုင်ကောင်းတန်ပါသည်။

၁၉၉၀ အေဒီ ၁၉၉၀ (၁၃၅၁ ခုနှစ်)အတွင်း ခရီးတွင်တွင်ထွက်၍ မီးဘေးအန္တရာယ် မကျရောက်စေရန် ကာကွယ်ပေးခဲ့သည်။ ကာကွယ်ပေးသည် ဆိုသည်ကား နတ်တော်လ ပြာသိုလ တပို့တွဲလ တပေါင်းလ ဆောင်းရာသီ လေးလအတွင်း မေတ္တာစိတ်ရှေ့ထားကာ ခရီးတွင်တွင် ဆက်၍ ပရိတ်ရွတ်ပွဲတွေ ဆောင်ရွက်ပေးခဲ့ခြင်းဖြစ်သည်။

နွေရာသီကာလဖြစ်သော တပေါင်းလ တန်ခူးလ ကဆုန်လများအတွင်း ရပ်နားခြင်းမရှိပါ၊ မုံရွာမြို့ တစ်ရပ်ကွက်၌ မီးလောင်ကြောင်း သတင်းကြား၍ ရှမ်းပြည်နယ်ခရီးစဉ်ကို ခေတ္တရပ်နားပြီးလျှင် လျင်မြန်စွာ (သကြံန်ရက်)အတွင်း အချိန်ပေးလိုက်သည်။

ဆရာတော်များ ရပ်ကွက်လူကြီးများနှင့်တိုင်ပင်၍ အကွက်စေ့အောင် မီးမလောင်စေရန် ပရိတ်ရွတ်ပေးခဲ့ရသည်။ မီးဘေးအန္တရာယ်မှ စိတ်ချရတော့မည်ဟူ၍ ကျေးဇူးတင်ကာ ဝမ်းမြောက်နေရစ်ကြသည်။

ဤအရှင်သည် ခရီးစဉ်အရ နယုန်လတွင် ထိုင်းနိုင်ငံသို့ ခရီးထွက်သွားရသည်။ ပြန်ရောက်သောအခါ နွေရာသီကုန်ဆုံး၍ မိုးရာသီသို့ ရောက်ခဲ့ပြီး ထက်အောက် မြန်မာပြည်အားလုံးတွင် ဘယ်မြို့ရွာမှ မီးဘေးသင့်ကြောင်း၊ မီးကြီးကျယ်စွာလောင်ကြောင်း သတင်းမကြားရပါ။ ဤသည်လျှင် ထင်ရှားသော အောင်မြင်ခြင်းဖြစ်၍ ကျေနပ်ရသည်။ ဝမ်းမြောက်ကြရသည်။

လူ့သတင်းကို လူချင်းဆောင် ဟူသော စကားပုံကဲ့သို့ ရဟန်းတို့၏ သတင်းကိုလည်း ရဟန်း သံဃာတော် အချင်းချင်း ဆောင်ကြစမြဲဖြစ်သည်။ ယခုခေတ် မြန်မာပြည်တွင် ရဟန်းသံဃာတော် လောက၌ ပရိတ်တန်ခိုးထက်မြက်သော ပုဂ္ဂိုလ်ထူးကြီးတစ်ပါးဖြစ်ကြောင်း အချင်းချင်း ပြောဆိုနေကြသည်ဆို၏။ သတင်းစကားတွေ ပြောဆိုခြင်းများလာသောအခါ ဤအရှင်၏ ထံပါးချဉ်းကပ်၍ ရဟန်းပုဂ္ဂိုလ် အချင်းချင်း တောင်းပန်ကြသည် ပရိတ်ရွတ်ပေးစေလိုကြသည်။

စာသင်တိုက်ကြီးတို့ကို အုပ်ချုပ်ရသော ဆရာတော်ဘုရားကြီးတို့က သူတို့၏ ကျောင်းတိုက်တာကြီး သံဃာတော်များအား ဘေးရန်ခပ်သိမ်း ကင်းရှင်းနေစေခြင်း



အကျိုးငှာ ပရိတ်ရွတ်ပေးစေလိုကြသည်။ ကူညီအားပေးသောအားဖြင့် ရွတ်ပေးစေလိုသော နေရာအရောက်လိုက်၍ ပရိတ်ရွတ်ပေးခဲ့ပါသည်။ ရဟန်းသာမဏေတို့အား ဩဝါဒစကားပါ ချီးမြှင့်ပေးခဲ့ရသည်ကလည်း များစွာရှိပါသည်။

သက်ရွယ်တော်ကြီး ဆရာတော်ဘုရားကြီးတို့က (အဘိဓဇ ရရှိပြီးသော ဆရာတော်ကြီးများပါ) သူတို့၏ ကျန်းမာရေး ချမ်းသာရေးအတွက် အနီးအပါး၌ ထိုင်စေပြီး သီးသန့် ပရိတ်ရွတ်ဆိုပေးစေလိုကြပါသည်။ မေတ္တာရပ်ခံစကားဖြင့် အမိန့်ရှိတော်မူလာကြပါသည်။ မိမိက ဝမ်းမြောက်စွာ နာခံ၍ ပရိတ်တရားတော်ကို ပြည့်စုံစွာ ရွတ်ဆိုပေးခဲ့ပါသည်။ ဤကား ဤအရှင်၏ ပရိတ်တန်ခိုးထက်နေကြောင်း သတင်းကြားရ၍ ယုံကြည်အားကိုးကြခြင်းဖြစ်သည်။

မေတ္တာတန်ခိုးရှိသော ပုဂ္ဂိုလ်ထူးကြီး ဖြစ်ကြောင်း လူပြောများလာသောအခါ ဤအရှင်၏ မေတ္တာကို ခံယူလိုပါကြောင်း ရောက်ရာဒေသမှ လူအများက တောင်းပန်ကြသည်။ ဘေးရန်အန္တရာယ်မှ ကင်းရှင်းစေလိုကြ၏။ ရောဂါသည်တို့က သူတို့ခံစားနေကြသော အနာရောဂါမှ ပျောက်ကင်းစေလိုကြသည်။ စာတိုစာရှည်ရေး၍ ပို့နေကြသည်လည်း များပြားလှဘိ၏။

ရဟန်းပုဂ္ဂိုလ်ကြီးငယ်အများကလည်း ဤအရှင်၏မေတ္တာကို ခံယူလိုပါကြောင်း လျှောက်ထားတောင်းပန်ကြသည်။ သက်ရွယ်တော်ကြီး ဆရာတော်ကြီး ပုဂ္ဂိုလ်များတွင် အဂ္ဂမဟာပဏ္ဍိတ၊ အဘိဓဇရရှိပြီးသော ဆရာတော်ကြီးများလည်း ပါဝင်ကြသည်။ ရိုးသားသော ရှေးခေတ်လူကြီးတို့ စိတ်ထားရှိကြသော ပုဂ္ဂိုလ်မွန်တို့ဖြစ်ကြသည်။

လူအချို့ ပြောဆိုနေကြပုံက ဤအရှင်ကို ဝိဇ္ဇာဓိုရ်ကြီး အမှန်ဖြစ်နေပြီဟူ၍ ထင်ကြေးဆိုကြသည်။ လူအချို့က အာဏာစက်ထက်မြက်သော ပျောက်စေဆရာတော်ကြီး ကေန်ဖြစ်တယ်။ ဘာရောဂါဖြစ်စေ တကယ်ပျောက်စေနိုင်သော အစွမ်းရှိတယ်ဟူ၍ ထင်ကြေးပြောကြသည်။ လူအချို့ကတော့ ဘယ်အရာမျိုးမဆို ဖြစ်စေလိုသော အားလုံးကို ဖြစ်နိုင်စွမ်းရှိနေပြီးသော ပုဂ္ဂိုလ်ထူးကြီးပမာ အားရပါးရ ပြောဆိုနေကြကြောင်း ပြန်လည်ကြားသိရ၏။

ထိုသူတို့ ပြောဆိုနေကြပုံတို့ကြောင့် ဤအရှင်ထံသို့ လူမျိုးစုံ ပရိသတ်ကြီးတွေ တရုန်းရုန်း လိုက်လာနေကြသည်။ ရှေးအခါက ရှေးနှစ်တို့ကကဲ့သို့ လွတ်လပ်စွာ နေထိုင်ခွင့် မရနိုင်တော့ပါ။ ဘုန်းကြီးမှာ လူတွေကြောက်၍ ပုန်းနေရသောအဖြစ်သို့ ရောက်မှန်းမသိ ရောက်နေရပါပြီ။ လူ့လောက၌ ပြောဆိုနေကြပုံတွေက ကဲလွန်ပြီး မောက်ဖြိုး လွန်းနေသည်ထင်၏။

အမှန်မှာ သူတို့ပြောဆိုနေကြသကဲ့သို့ ဝိဇ္ဇာဓိုရ်ကြီးလည်း မဟုတ်ပါ။ ပျောက်စေဆရာတော်ကြီး ပုဂ္ဂိုလ်ထူးကြီးလည်းမဟုတ်ပါ။ အညာသား ရှေးခေတ်ဆန်သော ဘုန်းကြီး ရိုးရိုးကြီးတစ်ပါးဖြစ်ကြောင်းနားလည်ကြပါ။ မေတ္တာစိတ်၊ ကရုဏာစိတ် ကြီးမားစွာထား၍ နေလေ့ရှိခြင်းတော့ အမှန်ဟုတ်ပါသည်။

လူ့လောက၌ မြို့ရွာကလေးများ မီးလောင်တတ်ကြ၍ မီးဘေးစသော ဘေးအန္တရာယ်မှ လွတ်ကင်းကြစေလိုသည်။ ကင်းလွတ်ကြစေလိုသောကြောင့် သက်ရွယ်ကြီး



ရင့်သော်လည်း ပင်ပန်းခံကာ မြို့ရွာအများသို့ လှည့်လည်ပြီး ပရိတ်ရွတ်ပေးခြင်း၊ မေတ္တာဖြန့်ပွားပေးခြင်းပြုနေသည်။ စိတ်ထားရိုးရိုးနှင့် ဆောင်ရွက်ပေးနေခြင်း ဖြစ်သည်။ လောကီဆေးဝါးသမား မန္တန်သမားမဟုတ်ပါ။ ဝါရင့်ဘုန်းကြီး စာရေးဆရာကြီး ဖြစ်သောကြောင့်ဗဟုသုတကြွယ်ဝတယ်ဟူ၍ ပြောဆိုနေကြသည်ကတော့ မှန်ပါလိမ့်မည်။

သို့ရာတွင် လောကီအတတ်ပညာသမားမဟုတ်ပါ။ ကမ္မဋ္ဌာန်းဘာဝနာနှင့် တောကြီး တောင်ကြီးအတွင်း၌ပျော်မွေ့၍ နေချင်တတ်သည်။ နေချင်တတ်၍ နေခဲ့ဖူးလှပြီ။ ထိုကဲ့သို့ ဝိဝေကစိတ် ကိန်းခြင်းသည် ဘဝနောက်ခံ အဆက်ဆက်မှ ပါခဲ့သော ပင်ကိုဝါသနာဖြစ်သည်။

**ဤအရှင် ပရိတ်ရွတ်သောအခါ ပရိတ်ရေအိုး၊ ပရိတ်ရေပုံး၊ ပရိတ်ရေဘူး၊ ပရိတ်ရေပုလင်းတို့မှ ရေများ ဆူပွက်နေလေ့ရှိကြသည်။ မီးဖိုပေါ်မှ ရေနွေးအိုး ဆူသကဲ့သို့ အခိုးထွက်ခြင်းမရှိပါ။ ရေပုံးထဲ၌ လှိုင်းခတ်နေခြင်း ခရုပတ်လှည့်နေခြင်း ဆူဝေကာ လျှံကျခြင်း ပျားရည်ပုလင်းများက ဖြူဖွေးသော အမြှုပ်တွေ ဆူပွက်ပြီး ဝေကျတတ်ခြင်း တွေ့ရမြဲဖြစ်သည်။**

သီရိမင္ဂလာသောကမင်းကြီး၏ လက်ထက်အခါ၌ ရဟန္တာပုဂ္ဂိုလ် အရှင်မြတ်တို့ ပရိတ်ရွတ် ဖတ်ကြသောအခါ ပရိတ်ရေအိုးမှရေများ ဆူဝေလျှံ၍ ကျကြောင်းပြောစဉ်ရှိကြ၍ တစ်ဆင့်စကားကြားကြရသည်။ ဤခေတ်တွင် ပရိတ်ရေအိုး၊ ပရိတ်ပုလင်းများက ဆူဝေကာ လျှံကျပုံ ကိုယ်တွေ့ မြင်ကြရသောအခါ ရဟန္တာပုဂ္ဂိုလ်မြတ်တစ်ပါး ကေန် ဖြစ်ရမည်ဟူ၍ ပြောဆိုကြသည်။ ထင်ကြေးပေးကြသည်ဟု ကြားသိရ၏။ တိုက်ရိုက်မေးမြန်းလျှောက်ထားသူလည်း အကြိမ်ကြိမ်တွေ့ရဖူး၏။

ဤအရှင် ပရိတ်ရွတ်ဆိုသော အခါတိုင်း ပရိတ်ရေအမြဲတမ်း ဆူဝေခြင်း မရှိပါ။ ရံခါအများ ရေဆူဝေတတ်သည် ရံခါထက်ဝက်ခန့်သာ ဆူဝေတတ်သည်။ ရံခါ သိသာအောင် ဆူဝေခြင်း လျှံကျခြင်းမရှိပါ။ သို့ရာတွင် ဤအရှင် ပရိတ်ရွတ်ထားပြီးသော ပရိတ်ရေ အားလုံးသည် တန်ခိုးရှိသည် အစွမ်းထက်သည်ကတော့အမှန်ပါ။

ကင်ဆာရောဂါရှိနေသူ သောက်လျှင် ဝမ်းတွင်းမှ ကင်ဆာ ကိုယ်ပေါ်မှ ကင်ဆာရောဂါတွေ ပျောက်ကင်းကြ၍ ဝမ်းမြောက်ကြသည်။ လူအများ၏ ကိုယ်တိုင်လက်တွေ့ ဖြစ်နေကြသည်။

ဆရာတော်ကိုယ်တိုင် ပွင့်ပွင့်လင်းလင်း ဟောကြားတော်မူသဖြင့် အောက်ပါအတိုင်း သိခွင့်ရခဲ့ပါသည်။

## ဘုန်းကြီးကို ပျားမတုပ်ပါ

အခြား ထူးခြားချက်တစ်ခုကို ပြောရလျှင် ဤအရှင်ကို ပျားမတုပ်ပါ။ လွန်ခဲ့သော နှစ်ပေါင်း ၂၀ ကျော်က ယခုတိုင် ဘုန်းကြီးနေထိုင်လျက်ရှိသောကျောင်း၏ အနီး၌ ရှိသော ခန္တီတောင်ခေါ်တွင်သော ကျောက်တောင်ကြီး ကမ်းပါး၌ လှည်းဘီး ပမာဏရှိသော ပျားအုံကြီးတွေ နှစ်စဉ်လာ၍ စွဲလေ့ရှိကြသည်။ အကောင်ကြီးသော ပျားကြီးမျိုးဖြစ်ကြရာ သူတို့တစ်ကောင်တုပ်လျှင် ဖျားသည်အထိ အဆိပ်ပြင်း၏။



တစ်ကောင်ထက် ပို၍တုပ်လျှင် များသလောက် လူသေသည်အထိ ဖြစ်နိုင်သည်။

ထူးခြားချက် ပြစရာကဲ့သို့ ကြုံတွေ့ရပုံမှာ တစ်နှစ်သော ဆောင်းရာသီတွင် အစိုးရ စိုက်ပျိုးရေးခြံမှ အလုပ်သမားချင်းလူမျိုးအချို့က အဆိုပါ တောင်ကြီးကမ်းပါးသို့ တက်ရောက်၍ မြက်ခြောက်တွေကို မီးရှို့၍ ပျားအုံကြီးများကို ယူကြရန် ကြိုးစားကြသည်။ သူတို့လူသိုက်က တောင်ကမ်းပါး တစ်နေရာ၌ ခြင်ထောင်ချ၍ ခြင်ထောင်တွင် ဝင်နေထိုင်ကြသည်။

ပျားကောင်တွေက မီးခိုးမွှန်၍ စိတ်ဆိုးကြပြီး အုံကြွကာ အရပ်ထက်ဝန်းကျင်သို့ ရှုပ်ယှက်ခတ် ပျံသန်းကာ တွေ့ရာမြင်ရာ သက်ရှိအားလုံးကို တုပ်ကြသည်။ လူများ နွားများမှ၍ ခွေး ဝက် ကြက် ငှက်ပါမကျန် ဒေါသကြီးစွာနှင့် လိုက်လံ တုပ်ကြလေရာ အတုပ်ခံရသူတိုင်း မခံမရပ်နိုင်၍ ဟိုပြေးသည်ပြေးနှင့် ဂေါ်ရခါး နွားအုပ်တွေမှာ ယောက်ယက်ခတ်နေကြသည်။ မိမိနေသော တောင်ကြီးအောက်ဘက်ရှိ ကားလမ်းပေါ်၌ ခရီးသွားလာလျက်ရှိကြသော လူများ နွားများကို လိုက်လံ တုပ်ကြသည်။ ထို့ပြင် အစိုးရ စိုက်ပျိုးရေး ခြံမြေပေါ်၌ရှိကြသော လုပ်သားချင်း ယောကျ်ား မိန်းမ အားလုံးကိုလည်းတွေ့ရာ သိမ်းကျုံးတုပ်ကြသည်။ မခံမရပ်နိုင် ဖြစ်ကြကာ ပြေးလွှားကြခြင်း ဆူညံသံတွေ ကြားနေရ၏။ ခြင်ထောင်တွင်း ဝင်နေကြသော ပျားဖွတ်သမားများကိုလည်း ပျားတွေကဝင်တုပ်ကြသည်။

အဆိပ်ပြင်းသော ပျားကြီးမျိုးဖြစ်၍ ပျားတုပ်ချက်အများဆုံး ခံကြရသော ပျားဖွတ်သမားတစ်စုမှာ ဆေးရုံတင်ပို့၍ ကုသခံယူကြရ၏။ ထိုအချိန်တွင် ဘုန်းကြီးသည် ထောင်ပေါင်းများစွာသော ပျားကောင်တွေ ရှုပ်ယှက်ခတ်ပျံသန်းနေကြသော ကောင်းကင်ပြင်အောက်တွင် အခြေအနေမပျက် သွားလာလှုပ်ရှားနေခဲ့ရာ ပျားတစ်ကောင်မျှ တုပ်ခြင်းမရှိပါ။ ဤအဖြစ်ကို ချင်း ဒကာများရော ဂေါ်ရခါးဒကာများရော လက်တွေ့မြင်ကြရာ ထူးခြားလှသည်ဟု အံ့ဩခဲ့ကြရဖူး၏။

ထိုနည်းတူ ပဆုပ်ပနီ ပျားမျိုးလည်း မတုပ်ပါ။ အာသံနယ်ခြား တောင်စဉ်တစ်လျှောက်၌ လှည့်လည်နေခဲ့စဉ်က တစ်နှစ်တွင် ဘုန်းကြီးက ၇ ရွာ၏ ကျောင်းအဖြစ် ဝါဆိုလျက်ရှိသည်။ ထိုအနီး၌ အစိုးရမူလတန်းကျောင်းရှိ၏။ ထိုကျောင်းဝင်းအနီးရှိ တောင်ရိုး ဆီးချုံတစ်ခု၌ ပဆုပ်ပနီ ပျားအုံရှိနေရာ ဆီးသီး ဆွတ်ယူစားကြသော ကျောင်းသားများကို ပျားတွေက ထွက်၍တုပ်ကြသည်။ ထိုပျားမျိုးကို အချို့ဒေသက ပထုံပနီဟူ၍လည်းခေါ်ဆိုကြ၏။ အရောင်အဆင်းနီနီ အရည်မတည်သော ပျားမျိုးဖြစ်၏။ ထိုပျားတုပ်လျှင် နာလွန်း၍ မခံမရပ်နိုင်ကြပါ။ အော်သူ အော် ငိုသူ ငို၍ ပြေးလာတတ်ကြပုံကို မကြာခဏမြင်နေရ၏။

တစ်နေ့တွင် ဘုန်းကြီးကို တုပ်မည်မဟုတ်ပါ။ ဆီးချုံအနီးကပ်၍ ရပ်ပြမည်ဟု ပြောရာ လက်တွေ့သိမြင်လိုကြ၍ ကျောင်းသားများက ဘုန်းကြီးနောက်မှ ဝိုင်းအုံ လိုက်လာကြ၏။ အဆိုပါဆီးချုံနှင့် မလှမ်းမကမ်းနေရာရောက်ကြလျှင် ပျားကောင်တွေ ပျံထွက်လာပြီး ဘုန်းကြီးနောက်ကျောမှ ကျောင်းသားများသို့ တရကြမ်းတုပ်ကြ၍ အော်ဟစ်ပြန်ပြေးသွားကြရ၏။ သို့နှင့် ဘုန်းကြီးတစ်ပါးတည်း ဣန္ဒြေမပျက် ရှေ့တိုး သွားပြီး ဆီးချုံအနီးကပ်၍ ကြာကြာရပ်ကြည့်နေသော်လည်း ပျားတစ်ကောင်မှ



တုပ်ခြင်းမပြုကြပါ။ ထိုအခါ ကျောင်းသားအများက လက်တွေ့မြင်ကြရ၍ အံ့ဩခြင်းဖြစ်ခဲ့ရဖူးသည်။

ဤ၎င်းအပြင် ဆရာတော်ကြီးက နောင်လာနောက်သားများသည် မြတ်စွာဘုရား၏ ဟောကြားတော်မူသော တရားတော်များကို လိုက်နာကျင့်ကြံခြင်း၏ တန်ဖိုးနှင့် ပရိတ်တော်၏ တန်ခိုးကိုလည်းကောင်း၊ မေတ္တာပွားများခြင်း၏ တန်ခိုးသိဒ္ဓိကိုလည်းကောင်း သိသာအောင်ဟူ၍ အောက်ပါအတိုင်း ဖွင့်ဟ ဖော်ပြခဲ့ပါသည်။ ဤတွင် နည်းလိုချင်သူများသည် နည်းကောင်းတစ်ခု ရနိုင်ပါသည်။

ထိုနည်းအတူ ဤအရှင်ကို ခွေးမကိုက်ပါ။ အလွန်ဆိုးသော ခွေးဖြစ်စေကာမူ ဘုန်းကြီးက ရဲရဲရပ်ပြကြည့်ဖူး၏။ လူစိမ်းဖြစ်လျှင် တွေ့မရှောင် ကိုက်လေ့ရှိသော ခွေးဆိုးများကပါ ဘုန်းကြီးကိုမကိုက်ပါ။ အနည်းငယ် ဟောင်ရုံသာ ဟောင်ပြီး ဘေးရှောင်သွားတတ်၏။ အချို့က ခေတ္တဟောင်ပြီး အမြီးနန့်ကာ ဘုန်းကြီးရှေ့ရပ်၍ ထိုင်၍ ဘုန်းကြီးမျက်နှာကို မော့ကြည့်နေတတ်ကြသည်။ မကိုက်ရုံသာမက မိမိအနီးသို့ ချဉ်းကပ်ခြင်းတောင် မပြုကြပါ။ ထို့ကြောင့် ဘယ်လိုခွေးမျိုးကိုမျှမကြောက်ပါ။

ထို့ပြင် လက်တွေ့ထူးခြားချက်တစ်ခုမှာ ဤအရှင်၏ ကျောင်း ပရိဝုဏ်အတွင်း၌ တောမီးမလောင်ပါ။ ဘုန်းကြီး အမြဲနေသော ကျောင်းသခ်မ်းသည် တောင်မြင့်ကြီးပေါ် တောအုပ်အတွင်း၌ ဖြစ်ရာ နွေရာသီရောက်ပြီဆိုလျှင် နှစ်စဉ် တောမီးတွေက သုံးဖက်သုံးတန်မှ ကြောက်မက်ဖွယ်ရာ အဟုန်ပြင်းစွာ လောင်လေ့ရှိကြ၏။ သို့သော် ဤအရှင်၏ ကျောင်းဝင်းပရိဝုဏ် အပိုင်းအခြား ခြံစည်းရိုးနယ်စပ်ကို ရောက်လျှင် လူတစ်စုံတစ်ယောက်က မသတ်ဘဲ လောင်လာသော မီးများသည်တန့်သွား၏။ ခရီးထွက် သွားနေရခိုက်အခါ တောမီးတွေ ဝိုင်းရံလောင်လာကြသော နှစ်တွေများစွာ ကြုံရဖူး၏။ ခရီးသွားရင်း ငါ့ကျောင်း မီးမှလွတ်ပါ့မည်လောဟု ရံခါတွေးဆမိဖူး၏။ မိမိကျောင်း ပြန်ရောက်လာ၍ အခြေအနေကို ကြည့်ရှုသောအခါ ကျောင်း ပရဝုဏ်စည်းကို ဦးတိုက်၍ အဘက်ဘက်၌ တောမီးငြိမ်းသွားကြပုံကို အံ့ဩဖွယ်ရာ တွေ့မြင်ကြရမြဲဖြစ်၏။

အမှန် အံ့ဩထိုက်သည်မှာ ဤအရှင်၏ ကျောင်းသခ်မ်းသည် သစ်ပင်ကြီးငယ်တွေ ဝိုင်းရံလျက်ရှိသော တောအုပ်ကြီးအတွင်း၌ရှိရာ မြေပြင်ကွက်လပ် ပြောပလောက်အောင်မရှိပါ။ တောလည်းတစ်ဆက်တည်း၊ ချုံပိတ်ပေါင်းများကလည်း တစ်ဆက်တည်း၊ မြက်ခြောက်များ သစ်ရွက်ခြောက်များလည်း ကြွေကျလျက် ရောထွေးကာ တစ်စပ်တည်းရှိနေကြ၏။ သဘာဝအတိုင်းဆိုလျှင် တစ်ဆက်တည်း တောက်လောင်လာနိုင်၏။ ထူးထူးခြားခြား ဆက်တိုက်မလောင်ဘဲ သူ့အလိုလို ရပ်တန့်၍ ငြိမ်းသွားတတ်ကြပုံကတော့ အမှန်ပင် ထူးခြားဘိ၏။ ထို့ကြောင့် မီးကိုပင် သစ္စာရှိလှသည်ဟု ဆိုရမလို ထင်မိသည်။

## နတ်များက ချစ်ခင်ကြည်ညိုကြပုံ

ထို့ပြင် မေတ္တာ ဗြဟ္မဝိဟာရ ပွားများခြင်း မြဲမှုကြောင့် နတ်များကလည်း ချစ်ခင်ကြည်ညိုနေကြဟန် တူသည်ဟု ယုံကြည်မိသည်။ ယခု ဤအရှင်နေသော ကျောင်းတိုက်အနီး၌ ခတ္တိန်တောင်မြင့်ကြီးရှိရာ ထိုတောင်ကြီးပေါ်၌ ဘုမ္မစိုးနတ်ကြီးရှိကြောင်းသိရ၏။ ရှိကြောင်းသိသာအောင် ထင်ရှားပြဖူး၍ သိခြင်းဖြစ်သည်။ ထင်ရှားသော အကြောင်းကို ပွင့်လင်းစွာပြောပါမည်ဟူ၍ ဆရာတော်ကြီးက ဖွင့်ဟဟောကြားခဲ့သဖြင့် သိခွင့်ရခဲ့ပါသည်။



လွန်ခဲ့သော နှစ်ပေါင်း ၂၀ ကျော်က ယခုလက်ရှိနေရာ၌ ဂေါ်ရခါး ဒကာများက မြတ်မိုးမြေထရံကာ ကျောင်းသင်္ခမ်းတလေး ဆောက်လုပ်လှူကြ၍ ဤအရှင် နေထိုင်ခဲ့ရာ ၃ နှစ်မြောက်အရောက်တွင် တွေ့ကြုံခဲ့ရသော ဖြစ်ရပ်ထူးဖြစ်၏။ အဆိုပါ တောင်စောင့်နတ်ကြီးသည် ညချမ်းအခါ ဝတ်ဖြူ စင်ကြယ်နှင့် ပကတိ လူအသွင်ဖြင့် ဘုန်းကြီးထံသို့ ၆ ကြိမ်တိုင်တိုင် လာ ရောက်ဖူး၏။

အခြားအရပ်သို့ ကြွမသွားပါနှင့် ဤတောင်၌သာ အမြဲ သီတင်းသုံး တော်မူပါဟူ၍ တောင်းပန်လျှောက်၏။ သူအမြဲ စောင့်ရှောက်နေသွားပါမည် ဟူ၍လည်း ဝန်ခံချက်ကတိ ပေးသွားပါသေး၏။ ၆ ကြိမ် လာခြင်းသည် တစ် ကြိမ်လာပြီးနောက် ရက်အတန်ငယ် ခြားပြီးမှ လာလေ့ရှိပါသည်။

တောင်စောင့်နတ်ကြီးသည် ညချမ်းကာလ၌သာ အချိန်မှန်လာတတ် ၏။ နံနက်ပိုင်း၌ မလာပါ။ ဘုန်းကြီးထံသို့ လာစဉ်အခါ သာမန်လူတစ်ယောက် ကဲ့သို့ပင် ရောက်လာတတ်ပြီး ဘုန်းကြီးထံမှ ပြန်သွားသောအခါ ခန္တီတောင် ကြီးခြေရင်း တောအုပ်ကြီးအတွင်းရောက်လျှင် ထူးခြားစွာ အလင်းရောင်တွေ တစ်တောလုံး တစ်တောင်လုံး လင်းထိန်နေအောင် လွှတ်၍သွားတတ်၏။ ထို အခြင်းအရာမြင်ရမှ သူဟာ နတ်ကြီးဖြစ်ကြောင်း မိမိအား သိစေခြင်းတည်းဟု နားလည်ရသည်။

ထို့ပြင် ထူးခြားချက်ပြောရလျှင် တောတွင်း ဝိဇ္ဇာမိုရ်များနှင့် ၃ ကြိမ် တွေ့ဖူးရခြင်းဖြစ်သည်။ နံနက်စောစော အရုဏ်ဦးအချိန်တွင် သူတို့က လာရောက်၍ (ဘုန်းကြီးအိပ်ရာခုတင်ပေါ်၌ လဲလျောင်းရင်း မေတ္တာဘာဝနာ ဖြန့်ပွားနေစဉ်) ကျောင်းသင်္ခမ်းအတွင်းဝင်လာ ဘုန်းကြီးအနီး ချဉ်းကပ် တွေ့ဆုံကြခြင်းဖြစ်သည်။ တစ်ဦးတည်းက ၃ ကြိမ်စင်ကြယ်နှင့် ဦးကျော်ဆိုသူ ဖြစ်ကြောင်း ပြောပြ၍ နှုတ်ဆက်ကာ ဘုန်းကြီးနှင့် ညာဘက်ပေါင် တစ်ဖက်ချင်း လဲလှယ်ကြမည်ဟုပြော၏။

မနာမကျင်စေဘဲ ပေါင်ရင်းကဖြတ်၍ လဲကြမယ်။ နောက်ပကတိ ပုံမှန် အတိုင်း ဖြစ်သွားမှာပါဟု ပြောပါသေး၏။ ရုတ်တရက် ဘာဆိုလိုကြောင်း နားမလည်၍ ဘုန်းကြီးက သဘောမတူသောကြောင့် မလဲဖြစ်ကြပါ။

ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းပွားများပါသလားဟူ၍ မေးသဖြင့် ဟုတ်ပါတယ်၊ ငယ်ရွယ်စဉ် သာမဏေဘဝ စစ်ကိုင်းတောင်ရိုး၌ နေစဉ်ကပင် ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်းကို စတင်ပွားများလာခဲ့တယ်၊ ခုတော့ ပိုရင့်ကျက်လာတယ်ဟု ဖြေကြားသောအခါ ကောင်းပါတယ် ဆက်လက်ပွားများနေတော်မူသွားပါ၊ တပည့်တော်တို့ ကြည်ညိုကြပါတယ်၊ ခွင့်ပြုတော်မူပါဟူ၍ လျှောက်ရင်း၊ မတ်တတ်ရပ် ရှိခိုးပြီး ပြန်ထွက်သွား၏။

ထူးသည်ကား မိမိကျောင်းသင်္ခမ်းအတွင်း၌ မိုးမလင်းသေး၍ မှောင်နေ သေးသော်လည်း ထိုဝိဇ္ဇာကြီးကို နေ့ခင်းအခါကဲ့သို့ ကောင်းစွာမြင်ရ၏။ သူပြန်သွားပြီးနောက် ဘုန်းကြီးခုတင်ပေါ်မှဆင်း၍ ကျောင်းအပြင်ထွက်မည်



ပြုသောအခါ တံခါးပေါက်သည် မိမိ ညက ပိတ်ထားသည့်အတိုင်း အခြေအနေ မပျက်ရှိနေပုံတွေ့ရ၏။ ဝိဇ္ဇာကြီးဦးကျော် ကျောင်းတံခါးမဖွင့်ဘဲ ကျောင်းတွင်း ဝင်ရောက်လာခြင်းဖြစ်ကြောင်း နားလည်လိုက်သည်။

ထို့နောက် ဒုတိယအကြိမ်မှာ ဝိဇ္ဇာနှစ်ယောက်ဖြစ်သည်။ နံနက်စောစော အရုဏ်အချိန်ပင်ဖြစ်ရာ ဘုန်းကြီး၏ အိပ်ရာခုတင်နဘေး၌ ရပ်လျက်တွေ့ရသည်။ သူတို့သည် ဟိမဝန္တာ၌ နေထိုင်ကြသော တောလူနှင့်ပုံဟန်တစ်ထေရာတည်းရှိကြသည်။ ကုလားစကား (ဟိန္ဒူစတန်နီ) စကားဖြင့် နှုတ်ဆက်ကြသည်။

ထို့နောက် တတိယအကြိမ်လာသူကား မြန်မာစစ်ဗိုလ်တစ်ဦး ဝတ်စုံအပြည့်အစုံဝတ်ထားသူ၊ မြန်မာစကားပြောသူဖြစ်သည်။ နံနက်စောစော အရုဏ်ဦးတွင် ကောင်းကင်မှ ကြိုတင်အသံပေးပြီးမှ ထူးခြားစွာ ရောက်လာသူဖြစ်သည်။ နမူနာအတိုချုပ်သာ အသိပေးခြင်းဖြစ်သည်။ အကျယ်ရေးရန် ဆန္ဒမရှိပါ။ ထူးခြားချက်မှာ နတ်ကြီးများသည် ညချမ်းအခါ၌သာ ပုံမှန်လာတတ်ကြသည်။ ဝိဇ္ဇာများ လာကြလျှင် နံနက်စောစော အရုဏ်ဦးအချိန်၌သာ ပုံမှန်လာလေ့ရှိကြပုံ သတိပြုမိသည်။ တစ်စုံတစ်ရာ ဘာမှပေးလှူသွားခြင်း မရှိပါ။ သူတို့သိလို မေးမြန်း၍ မေတ္တာနှင့် ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်း ဆက်လက် ပွားများနေသွားရန် အားလုံးတိုက်တွန်းကြပုံ တူညီကြသည်။

ဤသို့နှင့် ထူးခြားချက် တွေ့ဆုံဖူးချက် အများရှိပါ၏။ သို့ရာတွင် ဤ၌ဖော်ပြရန် ကြံရွယ်ချက် မရှိပါ။

လိုရင်း ဆိုလိုရင်းချက်မှာ မေတ္တာကရုဏာ ဗြဟ္မဝိဟာရနှင့် ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်းတို့၏ အရှိန်အာနိသင်ကြောင့် နတ်များနှင့် တောတွင်း ဝိဇ္ဇာဓိုရ်များက ချစ်ခင်လေးစား ကြည်ညိုနေကြခြင်း ဖြစ်တန်ရာသည်ဟု မိမိယုံကြည်သည်။ ဤအကြောင်းကို ချစ်ခင်ရင်းနှီးကြသော ရဟန်းပုဂ္ဂိုလ်များက မလျှို့ဝှက်ပါနှင့် သိလိုကြောင်း ရိုးသားစွာ တောင်းပန်ကြ၍ ဖော်ပြရခြင်းဖြစ်ပါသည်။

တောင်တန်းသာသနာပြုဆရာတော်ကြီး ဦးဥတ္တမသာရသည် ၁၃၅၇ ခုနှစ်၊ ပြာသိုလဆန်း(၇)ရက်၊ ၁၉၉၅ ဒီဇင်ဘာလ(၂၇)ရက်၊ ဗုဒ္ဓဟူးနေ့တွင် ပျံလွန်တော်မူသည်။

မေတ္တာစေသော ဝိမုတ္တိ၏သဘာဝ လောကီတန်ခိုး အမြွက်မျှပြောရလျှင် မိမိက တစ်စုံတစ်ယောက်ထံ စိတ်ညွတ်၍ ပို့လွှတ်လျှင် ပို့လွှတ်လိုက်သော မေတ္တာဓာတ်ကို ပို့လွှတ်ခံရသူအား သို့မဟုတ် သူများအား ကိုယ်စိတ် ချမ်းသာခြင်း ကျန်းမာခြင်း ရန်ဘေးမှ ကင်းလွတ်ခြင်း ကောင်းကျိုးလိုရာ ဆန္ဒအောင်မြင်ခြင်းကို ရရှိခံစားစေနိုင်၏။ ပို့လွှတ်ပေးရသူ မိမိအားလည်း စိတ်လက်ကြည်လင်၍ ကိုယ်စိတ်ချမ်းသာမှုကို ချက်ချင်းလက်တွေ့ခံစားရစမြဲဖြစ်၏။ ထို့ကြောင့် ဤမေတ္တာ တရားစာတမ်း ညွှန်ကြားချက်ကို ဖတ်ကြရသော ရဟန်းရှင်လူအားလုံးတို့သည် သံသရာကျင်လည်ရေးအတွက် စိတ်ချစွာ အားကိုးပြု၍ ထာဝစဉ် ပြန့်ပွားအားထုတ်နေကြရန် အထူးတိုက်တွန်းပါသတည်းဟု မှာတော်မူခဲ့ပါ၏။

ယနေ့တိုင် ရုပ်ကလာပ်တော် ကြွင်းကျန်သေးသော ရောဝတီတိုင်းဒေသကြီး
လေးမျက်နှာမြို့က ထူးခြားသော

# ဆရာတော် အရှင် ဦးဉာဏ

ခေတ် ၁၉၁၂ - ၁၉၅၇ ( ၁၂၇၃ - ၁၃၁၉ )





ဧရာတီတိုင်းဒေသကြီးတွင် လေးမျက်နှာမြို့ဟူ၍ရှိသည်။ ထိုမြို့၏ တစ်ဖက်ကမ်းတွင် နိဗ္ဗာန်ကျောင်းတိုက်ဟူသော ကျောင်းတိုက်ရှိ၏။ ထိုကျောင်းတိုက်တွင် ရုပ်ကလာပ်တော် ကြွင်းကျန်တော်မူသေးသော ဆရာတော် ဦးဥတ္တမ၏ ရုပ်ကလာပ်တော်ကို ယနေ့တိုင် ဖူးနိုင်ပါသေးသည်။

၁၉၅၇ အေဒီ ၁၉၅၇ ခု ၊ မေလ ၁၅ ရက် ၊ ဗုဒ္ဓဟူးနေ့ (၁၃၁၉ ခု၊ နယုန်လပြည့်ကျော် ၂ ရက်နေ့)တွင် ဆရာတော်ကြီးသည် မကျန်းမမာဖြစ်သည်ဟု ဆိုပါသည်။ ၎င်းနောက် တစ်လကျော်ကြာသောအခါ ခန္ဓာဝန်ချတော်မူပါသည်။ ဖြစ်ရပ်မှာ ရိုးရိုးသာဖြစ်ပါသည်။ ဆရာတော်ကြီး ခန္ဓာဝန်ချသောအခါ သက်တော် ၈၂ ၊ ဝါတော် ၆၃ ဝါ ရှိပြီးဖြစ်သည်။

၁၉၅၇ ခန္ဓာဝန် ချသောနှစ်မှာ အေဒီ ၁၉၅၇ ဇူလိုင်လ ၁၀ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၁၉ ခုနှစ် ဝါဆိုလဆန်း ၁၄ ရက်) ညနေ ၅ နာရီ ဖြစ်ပါသည်။

၁၉၅၇ အခါကာလသည် မိုးကာလဖြစ်သဖြင့် ရက်ကြာကြာ မထားကြဘဲ အေဒီ ၁၉၅၇ ခု၊ ဇူလိုင်လ ၃၁ ရက်၊ ဗုဒ္ဓဟူးနေ့ (၁၃၁၉ ခု ဝါခေါင်လဆန်း ၅ ရက်နေ့) အန္တိမ ဈာပနကို ပြုလုပ်ပူဇော်ကြရန် ဆုံးဖြတ်ကြပါသည်။ ထိုအခါ အလောင်းတော်ကို ရင်ခွဲခြင်းမပြုရန် အားလုံးကသဘောတူညီသည်ဟု ဆိုပါသည်။

နောက်ထပ် ရက်ပေါင်း ၁၀ ရက်ကြာသော်လည်း ရုပ်ကလာပ်တော်မှာ ပျော့ပျောင်းလျက်ပင်ရှိ၏။ အဆစ်များ အသားများ ကွေး၍ဆန့်၍ရ၏။ အပုပ်နံ့လည်း ထွက်ခြင်းမရှိပါ။

ဤသို့ ထူးခြားသော ဖြစ်ရပ်ဆန်းများကြောင့် ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်တော်မမူဘဲ စံကျောင်းနှင့်ထားရှိရန် စီမံကြရပြန်သည်ဟု ဆိုပါသည်။ ရုပ်ကလာပ်တော်မှာ မှိုဖြူများ မကြာခဏထွက်လာကြ၏။ မိုးကာလကြောင့် ဖြစ်မည်ဟု ဆိုကြပါသည်။

ထို့ကြောင့်လည်း ၃ ရက် တစ်ကြိမ်၊ ရေသုံးသပ်ပေးသည်ဟု သိရပါသည်။ ထိုအခါ ရုပ်ကလာပ်တော်၏ ထူးခြားမှုကြောင့် လာဖူးသူများ အလွန်များကြပါသည်။ ထိုအခါ နားလည်သူများ၏ ပြောဆိုချက်အရ ရေဝင်ကာ ပျက်စီးတတ်သဖြင့် ရေသုံးသပ်ခြင်း မပြုလုပ်ရန်၊ ဆုံးဖြတ်ကြပြန်သည်။

၁၉၅၇ မူလ ရုပ်ကလာပ်တော်အတိုင်း ထားရှိရန် ရည်ရွယ်ဆုံးဖြတ်ကြပါသည်။ သို့နှင့် ပျံလွန်တော်မူပြီး ၃ လနှင့် ၂ ရက် ကြာသောအခါ အလောင်းတော်ကို ကုလားထိုင်ပေါ်တွင်တင်ပြီးလျှင် တင်ပျဉ်ခွေကာ ဓာတ်ပုံရိုက်ယူကြသည်ဟု ထူးဆန်းစွာကြားသိရပြန်ပါသည်။ ထိုနေ့သည် အေဒီ ၁၉၅၇ခု၊ အောက်တိုဘာလ ၈ ရက်၊ အင်္ဂါနေ့ (၁၃၁၉ ခု၊ သီတင်းကျွတ်လပြည့်နေ့)ဖြစ်၏။ ထိုဓာတ်ပုံကို လေးမျက်နှာမြို့ နိဗ္ဗာန်ကျောင်းတိုက်တွင် ယနေ့တိုင်ဖူးမြော်နိုင်ပါသည်။

ရုပ်ကလာပ်တော်ကို ယခုအခါ ရွှေချထားကြပါသည်။ အကြောင်းအရင်းမှာ ထိုစဉ်အခါက ဂေါပကလူကြီးများသည် စု၍ ထီထိုးကြရာ ထီပေါက်သဖြင့် ရုပ်ကလာပ်တော်ကို သရိုးကိုင် ရွှေချလှူဒါန်းသည်ဟု ဆိုကြပါသည်။

## ရုပ်ကလာပ်တော်မှ ဆံပင်များ ပေါက်လာခြင်း သက်တံရောင်များ ထွက်ခြင်း

ရုပ်ကလာပ်တော်မှ ရွှေမချမီက ဆံပင်များ ပေါက်၍ပေါက်၍ လာတတ်သဖြင့် မကြာခဏ ရိတ်ပေးရကြောင်း သိရှိရပါသည်။ ရုပ်ကလာပ်တော်မှာလည်း ရံဖန် ရံခါ သက်တံရောင်ကဲ့သို့ အလင်းရောင်များ ထွက်လာတတ်ကြောင်း သိရှိရပါသည်။



ထိုသို့သော အံ့ဖွယ်ထူးခြား ကြည်ညိုဖွယ်ရာ အကြောင်းအရာများ ပေါ်ထွက်လာသဖြင့် ရောဝတီတိုင်းဒေသကြီး လေးမျက်နှာမြို့က သတင်းသည် အနီးအဝေး ပြန့်နှံ့သွားပါသည်။ ထို့ကြောင့် ဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကို တတ်စွမ်းသမျှ စုဆောင်းရပါသည်။

၁၉၁၂ ဆရာတော်ကြီးမှာ အေဒီ ၁၉၁၂ ခု၊ ဖေဖော်ဝါရီလ ၂၃ ရက်၊ (၁၂၇၃ ခု၊ တပေါင်းလဆန်း ၇ ရက်) ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်ကြောင်း သိရပါသည်။ ဖခမည်းတော်မှာ ဦးထွန်းအောင်ဖြစ်၏။ မယ်တော်မှာ ဒေါ်ဇံဒီး ဖြစ်၏ဟု သိရပါသည်။

(ဖေဖော်ဝါရီ ၂၃ ရက်သည် တပေါင်းလဆန်း ၇ ရက်မှာ သောကြာနေ့ဖြစ်ကြောင်း တွေ့ရှိရပါသည်။ ကျမ်းကိုး ပညာအလင်းပြ၊ အင်္ဂလိပ် မြန်မာ နှစ်တစ်ရာပြက္ခဒိန်၊ ၁၂၂၅ မှ ၁၃၂၉ ၊ ပညာအလင်းပြ ပုံနှိပ်တိုက် ၁၉၆၆ ပုံနှိပ်၊ စာ ၂၈၉ ကို ကြည့်ပါ)

ဆရာတော်ကြီး ရှင်သာမဏေအဖြစ် ခံယူစဉ်က ဆရာတော် ဦးအာစရိယကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ် ခံယူခဲ့သည်ဟု သိရပါသည်။ ဦးအာစရိယသည် လေးမျက်နှာမြို့နယ် ထောင့်ကျေးရွာရှိ တပ်စိတ်ကျောင်း၌ သီတင်းသုံးတော်မူသော ဆရာတော်ဖြစ်၏။ ကံကုန်းဂိုဏ်းကြီးကို စတင်တည်ထောင်သူလည်း ဖြစ်၏ဟု သိရပါသည်။

ရှင်သာမဏေ ဖြစ်၍ ၃ ဝါ ရသောအခါ ထိုကံကုန်းဆရာတော်ကြီးကိုပင် ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းအဖြစ်သို့ရောက်ခဲ့ကြောင်း သိရပါသည်။ ဘွဲ့တော်မှာ ဦးဥတ္တမ ဖြစ်ပါသည်။ ထိုဆရာတော်ကြီး၏ ထံတော်ပါးတွင်ပင် နေ့ဝါ ညဝါ ပါဠိ အဋ္ဌကထာ ဋီကာများကို သင်ယူခဲ့ကြောင်း သိရှိရပါသည်။

ၚင်းနောက် ညောင်ဦးသို့လည်း ပညာသင်သွားခဲ့သေး၏။ ပခုက္ကူသို့လည်း သွားရောက် ပညာသင်ခဲ့သေး၏။ ၎င်းနောက် မန္တလေးသို့လည်း သွားရောက် ပညာသင်ခဲ့သေး၏၊ ဤသို့ လောကီ လောကုတ္တရာ ပညာရပ်များကို လေ့လာခဲ့ကြောင်း လောကီဆေးကျမ်းများလည်း ကျွမ်းကျင်ကြောင်း နက္ခတ်ကျမ်းများကိုလည်း ကျမ်းကျေကြောင်း သိရှိရပါသည်။ ၎င်းနောက် ဝိပဿနာ အကျင့်မြတ်ကို ဆက်လက်အားထုတ်ကြောင်းသိရှိရပါသည်။

ဆရာတော် ဦးဥတ္တမသည် မူလက ကံကုန်းကျောင်းတွင်ပင် သီတင်းသုံးနေထိုင်သော်လည်း လေးမျက်နှာမြို့ ခုံကြီးရပ်ရှိ နိဗ္ဗာန်ကျောင်းတိုက်တွင် အမြဲသီတင်းသုံးတော်မူရန် သံဃာတော်တစ်ပါး အလိုရှိတော်မူသဖြင့် မြို့သူမြို့သားအပေါင်းတို့က ကံကုန်းဆရာတော်ထံ လာရောက်လျှောက်ထားသည်ဟု ဆိုပါသည်။ ထိုအခါ ဆရာတော်က ဦးဥတ္တမကို ထည့်လိုက်ခဲ့ပါသည်။

၁၉၄၄ ဦးဥတ္တမသည် နောက်ပါ ရဟန်း သာမဏေ ၁၅ ပါးနှင့် အတူ နိဗ္ဗာန်ကျောင်းတိုက်သို့ သွားရောက်သီတင်းသုံးသည်မှာ သက်တော် ၈၂၊ ဝါတော် ၆၃ ဝါ အထိ ဖြစ်ပါသည်။

ထိုစဉ်ကာလတွင် ဆရာတော်သည် သပိတ်ဖြင့်သာ ဆွမ်းဘုဉ်းပေးလေ့ရှိကြောင်း သိရပါသည်။ ရရှိထားသော ပစ္စည်းများကို သိုမှီးလေ့မရှိဘဲ အမြဲ ပေးစွန့်လေ့ရှိပါသည်။ ကျန်သော ပစ္စည်းများကိုလည်း လမ်းတွင် ချ၍ ပံ့သကူအဖြစ် စွန့်တော်မူသည်ဟု ဆိုပါသည်။

ဆရာတော်၏ လက်သုံးစကားမှာ သည်းခံကြပါဟူ၍ ဖြစ်ပါသည်။ ဆရာတော်သည် ကိုယ်အမူအရာ၊ နှုတ်အမူအရာ အလွန်သိမ်မွေ့ကြောင်း သိမြင်သူများက ပြောကြားကြပါသည်။ ဆရာတော်သည် ရုက္ခမူ ဓုတင်မူ၊ ဆောက်တည်လေ့ရှိကြောင်း၊ အာနာပါန သတိပဋ္ဌာန်တရားများကို အားထုတ်လေ့ရှိကြောင်း သိရပါသည်။

(ကျမ်းကိုး။ အချက်အလက်အပြည့်အစုံကို အယ်ဒီတာသန်းတြွယ်၊ ရောဝတီတိုင်း လေးမျက်နှာမြို့က ထူးခြားသော ရုပ်ကလာပ်တော် နတ္တဝတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၃ ခုနှစ်၊ ဖေဖော်ဝါရီလ အမှတ် ၁၉၉ စာ၊ ၄၆ တွင် ရှာကြည့်ပါ။)

တောဝိဋ္ဋပတ္တ ရဟန္တာ သဲအင်းဂူဆရာတော်

# အရှင် ဦးဥက္ကဋ္ဌ

**အေဒီ ၁၉၁၂ - ၁၉၇၆ ( ၁၂၇၄ - ၁၃၃၇ )**





ကျွန်တော်တို့ ငယ်ငယ်အရွယ် တက္ကသိုလ်ဆရာပေါက်စ ဖြစ်စကာလတုန်းက ရန်ကုန်တွင် ဟိုးဟိုးကျော် နေသော သတင်းတစ်ခုမှာ မှော်ဘီမြို့နယ်ဘက်တွင် ရဟန္တာတစ်ပါး ပေါ်ထွန်းနေသည်ဟူသော သတင်းပင်ဖြစ်ပါသည်။ ဆက်လက်၍ကြားသိရသည်မှာ ထိုဆရာတော်ကြီးသည် အလွန်ထူးခြားကြောင်း စာတတ်ပေတတ် အသိုင်းအဝိုင်းထဲကလည်း မဟုတ်ကြောင်း ဖွင်းပြင် ငယ်ငယ်တုန်းက ဓားပြဖြစ်ခဲ့ဖူး ကြောင်း စသည်တို့ကို လူပြောသူပြော ကောလာဟာလ ကြားသိနေရခြင်းဖြစ်ပါသည်။

ဤတွင် ကျွန်တော်တို့ အသိုင်းအဝိုင်းထဲမှ လောကီလောကုတ် စွယ်စုံရသော ပုဂ္ဂိုလ်တစ်ဦးက ပြောဆိုသည်မှာ ထိုဆရာတော်ကြီးသည် တရားထူးတရားမြတ် အရဟတ္တမဂ်ကို ရရှိပြီး ရဟန္တာဖြစ်တော် မူကြောင်း သတင်းဖြစ်ပါသည်။

ထို့ကြောင့် ကျွန်တော်တို့ ဆက်လက် စုံစမ်းကြပါသည်။ ထိုအခါ ပို၍ ပို၍ တိတိကျကျ သိရှိလာ ရပါသည်။ သိရှိရသည်မှာလည်း အလွန်ထူးပါသည်။

**ဖွားသက္ကရာဇ်**

၁၉၁၃ ထိုဆရာတော်ဘုရားကြီး (၁၂၇၄ ခုနှစ်၊ တပေါင်းလဆန်း ၁၀ ရက်၊ တနင်္ဂနွေနေ့။) ၁၉၁၃ ခုနှစ်၊ မတ်လ ၁၆ ရက် နံနက် ၈ နာရီတွင် ဖွားမြင်တော်မူခဲ့သည်ဟု သိရပါသည်။

**ပထမအကြိမ် နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း**

၁၉၅၉ (၁၃၂၁ ခုနှစ် တော်သလင်းလဆန်း ၆ ရက် တနင်္လာနေ့ ၁၁ ရက်) စနေနေ့ ၁၉၅၉ ခုနှစ်၊ စက်တင်ဘာလ ၁၂ ရက်တွင် ပထမတရားထူး သောတာပတ္တိမဂ်ကို ရတော်မူသည်ဟု သိရပါသည်။

**ဒုတိယအကြိမ် နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း**

၁၉၅၉ (၁၃၂၁ ခုနှစ် သီတင်းကျွတ်လဆန်း ၉ ရက်) စနေနေ့။ ၁၉၅၉ ခုနှစ်၊ အောက်တိုဘာလ ၁၀ ရက်တွင် ဒုတိယတရားထူး သကဒါဂါမိမဂ်ကို ရတော်မူသည်ဟု သိရပါသည်။

**တတိယအကြိမ် နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း**

၁၉၆၀ (၁၃၂၁ ခုနှစ် တပေါင်းလဆုတ် ၄ ရက်)အင်္ဂါနေ့။ ၁၉၆၀ ပြည့်နှစ် မတ်လ ၁၅ ရက်တွင် တတိယတရားထူး အနာဂါမိမဂ်ကိုရတော်မူသည်ဟု သိရပါသည်။

**စတုတ္ထအကြိမ် နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း**

၁၉၆၁ ၁၃၂၃ ခုနှစ် နယုန်လဆန်း ၇ ရက် စနေနေ့၊ ၁၉၆၁ ခု၊ မေလ ၂၀ ရက်တွင် စတုတ္ထတရားထူး အရဟတ္တမဂ်ကိုရရှိပြီး ရဟန္တာ ဖြစ်တော်မူသည်ဟု သိရပါသည်။

**ပရိနိဗ္ဗာန်ပြုတော်မူခြင်း**

၁၉၇၃ ၁၃၃၅ ခုနှစ်၊ ဝါဆိုလဆန်း ၉ ရက်၊ ၁၉၇၃ ခု၊ ဇူလိုင်လ ၈ ရက်၊ တနင်္ဂနွေနေ့



ညနေ ၄ နာရီ ၄၅ မိနစ်တွင် ပရိနိဗ္ဗာန်စံလွန်တော်မူသည်ဟု သိရပါသည်။

၁၉၇၅ ၁၃၃၇ ခုနှစ်၊ တန်ခူးလပြည့်ကျော် ၉ ရက်၊ သောကြာနေ့၊ ၁၉၇၅ ခု၊ ဧပြီလ ၄ ရက်တွင် ဆရာတော်၏ ဥတုဇရုပ်ကလာပ်တော်အား အန္တိမအဂ္ဂိဈာပန ကျင်းပပြီး မီးပူဇော်သင်္ဂြိုဟ်ခဲ့ပါသည်ဟု သိရပါသည်။

**ဆံတော်များ မီးမလောင်ဘဲ ကျန်ရစ်တော်မူခြင်း**

ဤတွင် ထူးခြားသောအချက်မှာ ဆရာတော်၏ ဥတုဇရုပ်ကလပ်တော်အား မီးသင်္ဂြိုဟ်ရာတွင် ဓာတ်တော်များကျသည့်အပြင် ဆံတော်များပါ မီးမလောင်ဘဲ ကျန်ရစ်တော်မူခဲ့ခြင်းပင်ဖြစ်ပါသည်။

**မျက်လုံးတော်အစုံ ပတ္တမြားမျက်ရှင်တော် နှစ်ဆူအဖြစ် ပြောင်းလဲ**

ဆရာတော်၏ မျက်လုံးအစုံမှာလည်း မီးမသင်္ဂြိုဟ်မီကပင်သို့ ပတ္တမြားလုံးအသွင် မျက်ရှင်တော်နှစ်ဆူအပြင် ပြောင်းလဲသွားခဲ့ကြောင်း အများသက်သေတွေ့မြင်ကြရပါသည်။

**ဆရာတော်၏ ဆံတော်များ သက်ရှိပကတိအတိုင်း ပွားများ ရှည်ထွက်ဆဲ**

ဆရာတော်၏ ကြွင်းကျန်သော ဆံတော်များသည်လည်း သက်ရှိပကတိအတိုင်း ပွားများရှည်ထွက်လာနေဆဲလျက်ရှိပါသည်။

၎င်းပြင် ဆရာတော်၏ ရုပ်ကလပ်တော်အား မီးသင်္ဂြိုဟ်ခဲ့သောနေရာ၌ အမှတ်တရ တည်ထားခဲ့သော 'လွမ်းစေတီ'မှာလည်း နှစ်စဉ် တန်ခူးလတွင် ရောင်ခြည်တော်ကွန်မြူးလေ့ရှိသဖြင့် 'ဓာတ်တော်မြူးစေတီ'ဟု ခေါ်တွင်နေကြပါသည်။

**မှော်ဘီ ရဟန္တာ**

ဤသို့ဖြင့် ကျွန်တော်တို့ကျင်လည်ကျက်စားရာ တက္ကသိုလ်ပရိဝုဏ်တစ်ခုလုံး မှော်ဘီ ရဟန္တာကိုယ်တော်မြတ်ကြီး၏ တရားရနံ့တို့မှာ ပြော၍ မကုန်နိုင် ကြည်ညို၍ မဆုံးနိုင်အောင် ရှိနေပါတော့သည်။

**သန်လျင်မှာ ကောင်းကင်ပေါ် ဈာန်ပျံ**

၁၉၆၁ ပို၍ သိသူတချို့က ပြောကြသည်မှာ ၁၃၂၃ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၁ ရက် တနင်္ဂနွေနေ့၊ ၁၉၆၁ ခုနှစ်၊ ဒီဇင်ဘာလ ၂၃ ရက်တွင် ဆရာတော်အား သန်လျင်တောရကျောင်းသို့ တရားစစ်ဆေးရန်ပင့်သွားစဉ် ရာထောင်မကသော လူထုကြီးက ဆရာတော်ကောင်းကင်ပေါ်၌ ဈာန်ပျံနေသည်ကို တွေ့မြင်ခဲ့ရကြောင်း သောသောညံမျှ ပြောဆိုနေကြသည်ကို ကြားကြရပြန်ပါသည်။

(ကျမ်းကိုး၊ နေဝန်းတစ်ဆူ သဲအင်းဂူ၊ စာမူပြုစုသူ - ဦးဘို အကာလိကော၊ ဖတ်ကြား ပူဇော်သည်၊ ဦးသိန်းမောင်၊ "တေဝိဇ္ဇ ပတ္တ ရဟန္တ"ဟု ကျော်ကြားခဲ့သော သဲအင်းဂူ ဆရာတော်ဦးဥတ္တမ၏ ထေရုပ္ပတ္တိ အကျဉ်းချုပ်၊ စာ ၅၃ )



## ဆရာတော်ကြီးအား ပြဟ္မာကြီး သုံးဦး လာရောက်ကန်တော့

ဆရာတော် တရားဟောရန် ပြဟ္မာကြီးသုံးဦးက လူယောဂီအသွင်ဖြင့် လာရောက် ကန်တော့တောင်းပန်ခဲ့ကြကြောင်း ကြားသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ)

## နတ်ဘီလူးတစ်ဦး သူရူးအသွင်ဖြင့် လာရောက်တောင်းဆို

ၚင်းအပြင် ဆရာတော်အား အာယုသင်္ခါရ လွှတ်ရန်ကိုလည်း နတ်ဘီလူး တစ်ဦးက သူရူးအသွင်ဖြင့် လာရောက်တောင်းဆိုခဲ့ကြောင်း ထပ်ဆင့်ကြားသိရပြန်ပါသည်။

တေဝိဇ္ဇ ပတ္တ ရဟန္တာအရှင်သူမြတ် ကျေးဇူးရှင် သဲအင်းဂူဆရာတော် ဘုရားကြီး အရှင်ဦးဥက္ကဋ္ဌ ပျံလွန်တော်မူသောအခါ ဆရာတော်၏ ဥတုဇ ရုပ်ကလာပ်တော်သည် ၃ နှစ်နီးပါး အပူဇော် ခံထားခဲ့သော်လည်း ပုပ်သိုးခြင်း မရှိဘဲ ပကတိအတိုင်း တည်ရှိနေခဲ့ကြောင်း သိရပြန်ပါတယ်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ)

ဤသို့ဖြင့် နေဝန်းတစ်ဆူ၊ သဲအင်းဂူဟူ၍လည်းကောင်း၊ မြန်မာ့တစ်ခွင်သာမက ကမ္ဘာ့တစ်ခွင် အထိ ထေရဝါဒသာသနာတော်ကြီးကို ထွန်းလင်းတောက်စေတော်မူခဲ့သော သဲအင်းဂူဆရာတော်ကြီး ဦးဥက္ကဋ္ဌမှာ သာသနာ့ဂုဏ်ဆောင် ရဟန္တာပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်ကြီးဖြစ်ကြောင်း သိရှိရပါသည်။

၁၉၇၃ ဆရာတော်ဘုရားကြီးသည် သက်တော် ၆၂ နှစ်၊ ၁၉၇၃ ခုနှစ်၊ ဇွန်လ ၂၃ ရက်၊ စနေနေ့တွင် ဂိလာနအဖြစ် ရန်ကုန်ဆေးရုံကြီးသို့ တက်ရောက်ကုသခဲ့ရာ ဇူလိုင်လ ၈ ရက်နေ့ တနင်္ဂနွေနေ့ ညနေ ၄း၄၅ မိနစ် ထွက်လေ ဝင်လေ ဤနှစ်ထွေ ငြိမ်သက်ရပ်စဲသွားတော်မူသည့်အချိန်တိုင်အောင် မိမိဝသီဘော်ပြုခဲ့သော တရား တော်ကို ဆင်ခြင်လျက်ပွားများလျက် တည်ငြိမ်စွာ သီတင်းသုံးတော်မူခဲ့ကြောင်း သိရှိရ ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၆၀ )

၁၉၆၁ ၁၃၂၃ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၁ ရက်နေ့ ၂၃ ရက်၊ ဒီဇင်ဘာလ ၁၉၆၁ ခုနှစ်၊ စနေနေ့တွင် ဦးပဥ္စင်းကြီး ဦးဥက္ကဋ္ဌအား အရိယာဘုံသွား ဉာဏ်လှေကား အမည်ရှိသော တရားစာအုပ်ကို ပြုစုရေးသားတော်မူသော သန်လျင်တောရ ဆရာ တော်ဦးတိလောကဉာဏပိကေထံသို့ တရားစစ်ဆေးခြင်းခံယူရန် ပင့်သွားသောအခါ ကလည်း လွန်စွာထူးခြားသောဖြစ်ရပ်များ ဖြစ်ခဲ့လေသည်။ ထိုအကြောင်းကို ယနေ့ တိုင် မှတ်မိသူများရှိပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၃ )

သဲအင်း ဦးပဥ္စင်းကြီး ဦးဥက္ကဋ္ဌ သန်လျင်တောရကျောင်းတိုက်တွင် တရားစစ်ဆေးခံပြီး နားနေ တော်မူစဉ် အနီးအနားရွာများမှ ရာထောင်မက လူထုကြီးသည် တောရကျောင်းတိုက်အတွင်းသို့ ရုတ်ရုတ်သဲသဲဝင်လာကြပြီး သဲအင်း ဦးပဥ္စင်းကြီးကိုမြင်သောအခါ ပျပ်ဝပ်ညွှတ်ကျိုးလက်စုံမိုး၍ ကန်တော့ကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၃)



## ရေထဲမှ ဘွားခနဲပေါ်လာပြီး ကောင်းကင်မှာ ရျာန်ပျံ

ဤကိုယ်တော်ကြီးသည် ရေကန်အတွင်းမှ ဘွားခနဲပေါ်လာပြီး ကောင်းကင်ယံတွင် ဈာန်ပျံနေသည်ကို မိမိတို့မျက်မြင်ဖြစ်ကြောင်း ၎င်းနောက် ဤကျောင်းတိုက်အတွင်းသို့ သက်ဆင်းသွားကြောင်း မိမိတို့ မျက်မြင်ဖြစ်ပါသည်ဟု အားရရွှင်လန်းစွာ ပြောဆိုဖူးမြော်ကြကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၃ )

ထိုအချိန်မှ စ၍ ဦးပဥ္စင်းကြီး ဦးဥက္ကဋ္ဌအား ရဟန္တာဟူ၍ လူအများက သမုတ်လာကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၄ )

မည်သို့ပင်ဖြစ်စေ ဦးပဥ္စင်းကြီးသည် ပထမသိက္ခာတော် ၁ ဝါတွင် လေးတိုင်စင်ဂူကျောင်းမှာပင် မိမိတရားနှင့် မိမိ အငြိမ်းစား အေးချမ်းစွာ နေထိုင်ခဲ့ငြားသော်လည်း တစ်ယောက်ကစ တစ်ရာသတင်း ဖြာလာသောအခါ ကိုးကွယ်သူ သူများသည် ထင်ရှားလာသောကြောင့် ဒုတိယနှစ်ဝါမှ အစ (၁၁) ဝါ တိုင်တိုင် နေ့မအားညမလပ် ခန္ဓာကိုယ်ကို မငဲ့ကွက်ပါဘဲလျက် သိက္ခာတော် (၁၂)ဝါ အသက်ခန္ဓာ ချုပ်ပျက်သည်အထိ သာသနာပြုခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၄ )

ဆရာတော်ဘုရားသည် မူလတရားကျင့်စဉ်က မည်သူမည်ဝါအား ချွတ်ရန်ဟူသော ရည်ရွယ်ချက်ဖြင့် တရားအားထုတ်ခဲ့ခြင်း မဟုတ်ခဲ့ပါ။ မိမိကိုယ်တိုင် တရားရရန် အားထုတ်ခြင်းသာဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၄ )

## ပြဟ္မာကြီး (၄)ဦး လာရောက်တောင်းယန်

သို့သော် တစ်ရံရောအခါ လူလေးယောက်က လာရောက်ပြီး အရှင်ဘုရား ကျွတ်ထိုက်သောသတ္တဝါများကို ချွတ်တော်မူပါဟု လျှောက်ထားခဲ့သည်ကို ကတိပေးမိသောကြောင့် ဤကဲ့သို့ တရားပြနေရခြင်းဖြစ်ပေသည်။ ထိုလူလေးယောက်သည် အကာလ ညအခါမှရောက်လာခြင်းမှာ စဉ်းစားဖွယ်ရာဖြစ်သည်ဟု ဆင်ခြင်မိသောအခါ ပြဟ္မာကြီးလေးဦးဖြစ်နေသည်ကို သိရပေသည်။ ထိုပုဂ္ဂိုလ်လေးဦးအပြန်တွင် မြေလျှောင်လှုပ်သွားလေသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၄ )

ဆရာတော်ကြီးက မိမိကိုယ်ကို ရဟန်းခံပြီးသည့်အချိန်မှစ၍ ဦးပဥ္စင်းကြီးဟူ၍ သမုတ်လေ့ရှိပါသည်။ မိမိကိုယ်ကို ရဟန္တာဟူ၍ မည်သည့်အခါကမှ သမုတ်ခဲ့ခြင်း မပြုခဲ့ပါ။ တပည့်များကသာ ဦးပဥ္စင်းကြီး ဟူ၍လည်းကောင်း၊ ထို့နောက် ဆရာတော်ဟူ၍လည်းကောင်း၊ ထို့နောက် ဆရာတော်ဘုရားဟူ၍လည်းကောင်း၊ မိမိတို့ ကြည်ညိုစိတ်တွင် ဖြစ်ပေါ်လာသော အာရုံအတိုင်း ခေါ်ဝေါ် သမုတ်ကြကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၅ )

(ကျမ်းကိုး၊ မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၂၄)၊ ၁၂-၉-၂၀၀၅။)



တေဝိဇ္ဇ ပတ္တ ရဟန္တာဟု ကျော်ကြားခဲ့သော သဲအင်းဂူ ဆရာတော် ဦးဥက္ကဋ္ဌ၏ အကြောင်းအရာ အချို့ကို ဖော်ပြခဲ့ပါသည်။ သဲအင်းဂူဆရာတော်မှာ ငယ်ဖြူမဟုတ်ပါ။ သက်တော် ၅၀ နီးခါမှ တရားထူးရပြီး ရဟန်းဘောင်သို့ ကူးပြောင်းခဲ့ခြင်းဖြစ်ပါသည်။ ရဟန်းဘ၀ သိက္ခာတော် ၁၂ ဝါတွင် ၁၁ ဝါတိုင်တိုင် သာသနာပြုခဲ့၏။ သို့သော်လည်း ဆရာတော်ဘုရားကြီး၏ သီလဂုဏ်၊ သမာဓိဂုဏ်တို့မှာ ရေး၍ကုန်နိုင်မည်မဟုတ်ပါ။

ဆရာတော်ဘုရား၏ လူ့ဘ၀အကောင်းဆုံး အဆီအနှစ်များကိုသာ ဖော်ထုတ်ပြီးလျှင် မကောင်းမှုများကို ထိန်ချန်ထားပါက နည်းလမ်းကျမည် မဟုတ်ကြောင်း၊ တစ်ဖန် အတိတ်က ကုသိုလ်ကံ၊ အကုသိုလ်ကံများကို အကြောင်းခံ၍ ဖြစ်ပေါ်လာသော အံ့ဩဖွယ်ရာ တန်ခိုးတော်များနှင့် ရင်နင့်ဖွယ်ရာခံစားမှု ဝဋ်ဒုက္ခ အပေါင်းတို့ကိုလည်း ဖော်ပြရန် လိုလာပြန်ပါသည်ဟူ၍ စာမူပြုစုသူ ဆရာကြီး ဦးဘို (အကာလိကော)က ဖော်ပြခဲ့ပါသည်။

(ကျမ်းကိုး၊ မှော်ဘီရဟန္တာ သဲအင်းဂူ ဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိကို ဦးဘိုက ပြုစုပြီး အမှုဆောင်လူကြီး ဦးသိန်းမောင်က ဖတ်ကြားခဲ့ဖူးပါသည်။ ထိုစဉ်က သဲအင်းဂူဆရာတော်ဘုရားကြီး ပူဇော်ပွဲ အခမ်းအနားတွင် တိုင်းသာသနာရေး ဦးစီးဌာနမှူး ဦးဝင်းက ဇေယျမင်္ဂလာ ဂါထာတော်ကို ဖတ်ကြားပူဇော်ခဲ့ပါသည်။ လက်ထောက် တိုင်းသာသနာရေး ဦးစီးဌာနမှူး ဦးခင်မောင်ကျော် ရေးစပ်ပူဇော်သော ဂုဏသိဂီတိကဗျာများကို ဆရာကြီး ဒေါ်စန္ဒဝတီနှင့် သီလရှင်များက အသံဖြင့် ပူဇော်ခဲ့ပါသည်။ ဦးခင်မောင်ကျော် ကိုယ်တိုင်လည်း တမ်းတလွှာဖြင့် ပူဇော်ကန်တော့ခဲ့ပါသည်။ ထိုစဉ်က မှတ်စုတို့သည် အားကိုးလောက်သဖြင့် ယခု ပြန်လည် ဆန်းသစ်ဖော်ပြပါမည်။)

## လူအမည် ဦးအောင်ထွန်း

သဲအင်းဂူ ဆရာတော်ဘုရားကြီး၏ လူအမည်မှာ ဦးအောင်ထွန်းဖြစ်ပါသည်။ ဖခင်အမည်မှာ ဦးသော်တာဖြစ်၏။ မိခင်မှာ ဒေါ်မယ်အံ့ဖြစ်၏။ ဖခင်သည် ဓာတ်ဗိန္ဒော ဆရာကြီးဖြစ်၏။ မိခင်ဖခင်တို့မှာ အညာ မူးရဝရထောင် ဇာတိဖြစ်ကြ၏။

ရန်ကုန်ခရိုင်၊ မှော်ဘီမြို့နယ်၊ နှောကုန်းကျေးရွာ အညာစုတွင် ဖူးစာဆုံခဲ့ပါသည်။ ၎င်းတို့မှ ပေါက်ဖွား ခဲ့သော သားသမီး ၇ ယောက်ရှိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၀ )

## မွေးလ မွေးရက်

၁၉၁၉ ဦးအောင်ထွန်းသည် တတိယမြောက်သားဖြစ်၏။ ဦးအောင်ထွန်းကို (၁၂၇၄ ခုနှစ် တပေါင်း လဆန်း ၁၀ ရက်) ၁၉၁၉ မတ်လ၊ ၁၆ ရက် တနင်္ဂနွေနေ့ မနက် ၈နာရီ အချိန်တွင် ဖွားမြင်ခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၁ )

## စာပေမှာ ပါရမီမပါ

မောင်အောင်ထွန်းမှာ ဘုန်းကြီးကျောင်းတွင် စာသင်ခဲ့ရပါသည်။ သို့သော်လည်း စာပေအရာမှာ ပါရမီမပါသောကြောင့် ငယ်ငယ်ရွယ်ရွယ်နှင့်ပင် ကျောင်းထွက်ခဲ့ရကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၁ )



## သီချင်းဆို ဘင်ဂျိုတီး အပြေးပြိုင် ထူးချွန်

စာမတော်သော်လည်း သီချင်းဆိုခြင်း၊ ဘင်ဂျိုတီးခြင်းတို့တွင်ကား ထူးချွန်ခဲ့ကြောင်း သိရပါသည်။ ၎င်းအပြင် အပြေးပြိုင်ပွဲတွင် ထူးချွန်သူတစ်ယောက်ဖြစ်သောကြောင့် လူချစ်လူခင် ပေါများခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၀ )

## ၁၄ နှစ်မှာ အိမ်ထောင်ကျ

ထို့ကြောင့်လည်း အသက် ၁၄ နှစ်အရွယ် လူမမယ်ဘဝတွင် အိမ်ထောင်ကျခဲ့ရကြောင်း၊ အမျိုးသမီးမှာ မဖွားညွန့် ဆိုသူဖြစ်ကြောင်း ၁၄ နှစ် သမီးအရွယ်မျှသာရှိသေးကြောင်း အံ့သြဖွယ် သိရှိခဲ့ရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၁ )

## သမီး ၃ ယောက် ဖခင်

ထို့ကြောင့်ပင် အိမ်ထောင်သက် ၆ နှစ်၊ အသက် ၂၀ အရွယ်သို့ ရောက်သောအခါ သမီးသုံးယောက်တို့၏ဖခင် ဖြစ်လာခဲ့ရလေတော့သည်။ သမီးသုံးယောက်မှာ မတင်ရွှေ၊ မအုန်းတင်၊ မသိန်းမြင့်တို့ဖြစ်ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၂ )

အသက်ငယ်ငယ် အိမ်ထောင်သည်ဘဝဖြင့် ဖြတ်သန်းခဲ့ရသောခရီးမှာ ကြမ်းတမ်းခဲ့ကြောင်း သိရှိရပါသည်။ ထိုဘဝသည် လူဆိုးလူမိုက်တို့၏ လက်တွေ့အတတ်သင် ကျောင်းကြီးကဲ့သို့ဖြစ်ကြောင်း သိရှိခဲ့ရပါသည်။ ထိုဘဝတွင် ဘုရားမကြိုက်၊ နတ်မကြိုက်သော အလုပ်တို့ကို ငွေအတွက် လူဆိုးလူမိုက်တို့ ခိုင်းသမျှ လုပ်ခဲ့ရကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၂ )

## အရပ် ၅ ပေ ၈ လက်မ

သာမန်အားဖြင့် မောင်အောင်ထွန်းမှာ ရိုးသားသော စိတ်ဓာတ်အပြည့်ရှိ၏။ ၎င်းအပြင် မဟုတ်မခံ သတ္တိကလည်းရှိပြန်၏။ အရပ်က ၅ ပေ ၈ လက်မရှိသည်ဟုဆို၏။ သန်မာထွားကြိုင်းပြီး ယောကျ်ားကောင်းပီသကြောင်း သိရှိရပါသည်။ လူချစ်လူခင်ပေါများခြင်း၊ စွန့်စားရဲခြင်း၊ သတ္တိဗျတ္တိ ရှိခြင်းတို့ကြောင့် နောက်လိုက်ဘဝမှ ခေါင်းဆောင်ဘဝသို့ ရောက်ရှိခဲ့ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၂)

## လူမိုက်ခေါင်းဆောင်

လူမိုက်ခေါင်းဆောင် ဘဝတွင်လည်း အပေါင်းအသင်းများနှင့် မွေ့လျော်ကြောင်း၊ မိမိရရှိသော ငွေများကိုလည်း နိမ့်ကျသူများကို ရက်ရောစွာ ပေးကမ်းလေ့ရှိကြောင်း၊ သာရေးနာရေးများတွင် လူအား ငွေအားတို့ဖြင့် ကူညီလေ့ရှိကြောင်း သိရပါသည်။ ပေးထားသောငွေများကို ပြန်တောင်းလေ့မရှိသကဲ့သို့ ယူထားသော ငွေများကိုလည်း ပြန်ပေးရကောင်းမှန်းပင် မသိဟူ၍ပင် ဆိုခဲ့ကြပါသည်။ ဤကား ငယ်ငယ် ဘဝ တစေ့တစောင်းဖြစ်၏။

**အဖျောက်မှာ ဖမ်းခံရ**



၁၉၃၂ ၁၉၃၂ ခုနှစ် (၁၂၉၄ ခု )တွင် သူကြီး ဦးကျော်လက်ထက်တွင် မောင်အောင်ထွန်းအား ပုဒ်မ ၁၁၀ တပ်၍ အဖျောက်မြို့နယ် လှည်းလမ်းကူးကျေးရွာသို့ နယ်ပြောင်းလိုက်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၃ )

အပြစ်ဒဏ်မှာ ၂ နှစ်ဖြစ်သော်လည်း ၎င်း၏အလုပ် ဝတ္တရားကျေပွန်မှုနှင့် ရည်မွန်သော ပေါင်းသင်းဆက်ဆံမှုတို့ကြောင့် ၂ နှစ်အစား ၆ လသာ အပြစ်ဒဏ်ခံခဲ့ရပါသည်။

**ဓားပြဗိုလ်**

လှည်းလမ်းကူးကျေးရွာမှ နေရပ်သို့အပြန်တွင် ၎င်း၏ အပေါင်းဖော်များဖြစ်ကြသော ငဒွေး၊ မိုးအေးနှင့် ကုလားတို့၏ အကူအညီတောင်းမှုကြောင့် အဖျောက်မြို့နယ် ပိတုန်းပင်ရွာ၊ ချစ်တီးကုလား ပေါ်ကတ် ဆိုသူ၏အိမ်ကို ဓားပြဝင်တိုက်ကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၃ )

**ထောင်ဒဏ် ၇ နှစ်**

ထိုအမှုကြောင့် အသက် ၂၅ နှစ်အရွယ်တွင် ဟင်္သာတမြို့ ၅ နံပါတ်ရုံးမှ ထောင်ဒဏ် ၇ နှစ် အပြစ်ပေးခြင်းကို ခံခဲ့ရပြန်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၃)

**ဂျပန်ခေတ်**

ဟင်္သာတ၊ ပုသိမ်၊ မုံရွာလင် စသည့် ထောင်များတွင် သံသရာလည်နေရာမှ မန္တလေးထောင် အရောက်တွင် ဂျပန်များ ဝင်လာသောကြောင့် မောင်အောင်ထွန်းအပါအဝင် အကျဉ်းသားများကို အာဏာပိုင်များက လွှတ်လိုက်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၃ )

**ဆေးဆရာ လုပ်မည့်စိတ်ကူး**

မောင်အောင်ထွန်းသည် ထောင်မှထွက်လာပြီးနောက် မိမိနေရပ်ဌာနေသို့ ပြန်ရောက်သောအခါ ဖခင်ကြီးကွယ်လွန်ပြီ ဖြစ်ကြောင်းကိုလည်းကောင်း၊ မိမိ၏ ဇနီးသည်မှာ နောက်အိမ်ထောင်ပြုလိုက်ပြီ ဖြစ်ကြောင်းကိုလည်းကောင်း၊ သိရသောအခါ မူလက စိတ်ကူးထားသော မိဘရိုးရာ သမားတော်အဖြစ် လုပ်ကိုင်စားသောက်မည့် ရည်မှန်းချက်မှာ ပျောက်ကွယ်သွားခဲ့ပြန်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၄)

ထို့ကြောင့်ပင် မိမိသည် ၄၆ နှစ် လုံးလုံး လူမဟုတ်သေးကြောင်း လောဘစိတ်၊ ဒေါသစိတ်၊ မောဟစိတ်နှင့်သာ မွေ့လျော်နေခဲ့ကြောင်း တို့ကို တရားဟောရာတွင် ဝန်ခံခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၄)

**ဒုတိယ အိမ်ထောင်**

အိမ်ထောင်ဘက်မဲ့နေသောကြောင့် အိမ်ထောင်ပြုရန် တစ်ဖန် စိတ်ကူးခဲ့



ပြန်သည်။ မကျင်စိန်ဆိုသူနှင့် လက်ဆက်ခဲ့ပြန်သည်။ သို့သော်လည်း ပေါင်း၍ တစ်နှစ်ကြာသောအခါ ထိုမကျင်စိန်မှာ ဆုံးပါးသွားခဲ့ပြန်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၄)

## တတိယ အိမ်ထောင်

ထိုလောကဝလမ်းကြောင်းတွင် အိမ်ထောင်သစ် ရှာဖွေခဲ့ပြန်ပါသည်။ ထိုအခါ ဒေါ်စီဆိုသူနှင့် အိမ်ထောင်ပြုခဲ့ပြန်ပါသည်။ ဒေါ်စီသည် ဥသျှစ်ကုန်းရွာသူ ဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၄ )

## စတုတ္ထအိမ်ထောင်

နောင်သောအခါ ဦးအောင်ထွန်းသည် မှော်ဘီမြို့အပြင်ဘက်တွက် ကျက်စား၍ အနေများခဲ့သည်ဖြစ်ရာ ဒေါ်သန်းရှိန်ဆိုသူနှင့် တစ်ဖန်ကံဆုံခဲ့ပြန်လေသည်။ ဒေါ်သန်းရှိန်သည် ကမာရွတ်သူဖြစ်၏။ ဤသို့ဖြင့် အိမ်ထောင် လေးဆက်ဖြစ်ခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၄ )

## စွန်းလွန်းဆရာတော်ထေရုပ္ပတ္တိ ဖတ်ခဲ့ရခြင်း

ဒေါ်သန်းရှိန်သည် ရတနာသုံးပါး ကိုင်းရှိုင်းသူဖြစ်၏။ ဒေါ်သန်းရှိန်၏ ကောင်းမှုဖြင့် စွန်းလွန်းဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ စာအုပ်တစ်အုပ်ကို ဦးအောင်ထွန်း ရရှိခဲ့လေသည်။

ထိုအလွန်ထူးခြားသော မြင်းခြံ စွန်းလွန်းဆရာတော်ဘုရားကြီး၏အကြောင်း စာများကို ဖတ်ကြားရင်း ကြိမ်းဝါးခဲ့ကြောင်း၊ သိရှိခဲ့ရပါသည်။ ထိုစာအုပ်တွင်ပါသော စာသားများကို ဖတ်ပြီးသည်နှင့် အဆုံးတွင် ကြက်သီးမွေးညင်း တဖြန်းဖြန်းထလာခဲ့သည်ဟူ၍ သိရှိရပါသည်။ ထိုသို့သော အချိန်တွင် ဦးအောင်ထွန်း၏ဘဝတွင် ဘဝတစ်ဆစ်ချိုး အကွေ့အပြောင်းများကို တွေ့ခဲ့ရသည်ဟု ဆိုသင့်ပါသည်။ ထိုအချက်ကို ယခုဆိုပါမည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅)

## အိမ်ရှင်က ဓားနှင့်ခုတ်

၁၉၅၉ ၁၃၂၁ ခု၊ ဝါခေါင်လ ၁၉၅၉ ခု၊ ဩဂုတ်လ အတွင်းတွင် အိမ်တစ်အိမ်သို့ အတက်တွင် အိမ်ရှင်က ဓားနှင့်ခုတ်သဖြင့် အိမ်ရှင်၏ဓားချက်ဖြင့် ဦးအောင်ထွန်း သည် ပက်လက်လန်၍ကျသွားခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅)

ထိုဓားဒဏ်ရာကို ဆေးကုသရန်အလို့ငှာ ဦးအောင်ထွန်းသည် နွားကုန်းရွာသို့ ပြန်လာခဲ့ပါသည်။ ထိုအချိန်တွင် ဦးအောင်ထွန်း၏စိတ်တွင် တရားအားထုတ်လိုစိတ် ပြင်းပြင်းထန်ထန် ဖြစ်ပေါ်လာခဲ့ကြောင်း သိရှိရပါသည်။ ထိုစိတ်ပေါ်လာသည်မှာလည်း စွန်းလွန်းဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ



ကြောင့်တစ်ကြောင်း ထိုသို့သောအကြောင်းနှစ်ကြောင်း ဆုံစည်းလာကြောင်း ပြောဆိုကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅)

## အုန်းနဲ့ပင်မှာ စတင် တရားအားထုတ်

ဓားဒဏ်ရာ ပျောက်ကွယ်သောအခါ ဦးအောင်ထွန်းသည် နှောကုန်းကျေးရွာကျောင်းကလေး ဘုန်းတော်ကြီး ဦးသာဒိနထံတွင် ၉ ပါးသီလခံယူ၍ ၉ ရက် သက်သတ်လွတ်စားရန် အဓိဋ္ဌာန်ပြုပြီး တရားအားထုတ်ရန် ဆုံးဖြတ်ခဲ့ကြောင်းသိရပါသည်။ တရားအားထုတ်သောနေရာမှာ အစ်မကြီး ဒေါ်ဖွားစိန်၏ ခြံဝင်းအတွင်းရှိ အုန်းနဲ့ပင်အောက်တွင်ဖြစ်ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၅ )

၁၉၅၉ ထိုနေ့သည် ၁၃၂၁ ခု၊ တော်သလင်းလဆန်း ၆ ရက် ၁၉၅၉ ခု၊ စက်တင်ဘာလ ၇ ရက် တနင်္လာနေ့ဖြစ်ကြောင်း သိရပါသည်။

## အာနာပါန ကျင့်စဉ်

ဦးအောင်ထွန်း၏ ကျင့်စဉ်မှာ အာနာပါန ကျင့်စဉ်ဖြစ်ကြောင်း သိရပါသည်။

ထိုအကြောင်းကို နောင်သောအခါ ပြန်လည်သုံးသပ်၍ ပြန်လည်ဟောပြောသဖြင့် သိရှိရသည်မှာ အလွန်မှတ်သားလောက်ပါသည်။

တရားထိုင်စဉ် ဣရိယာပုတ်ကို မည်သည့်အခါမှမပြင်ခဲ့ပါ။ နာကျင်ကိုက်ခဲသည့် ဝေဒနာတစ်ခု၏ အစအလယ်အဆုံး သုံးပါးစလုံးကို ကြေညက်နေအောင် ရှုပွားခဲ့သည်။ ဝေဒနာအပြင်းအထန် တက်လာသောအခါ နှာသီးဝမှ လေကို ပြင်းပြင်းထန်ထန် ရှူပေးပါသည်။ ဝေဒနာနည်းသောအခါ နှာသီးဝ လေကို နည်းနည်း ရှူပေးပါသည်။ အသက်ရှူသောနှုန်းမှာ ဝင်လေထွက်လေ နှစ်ရပ်ပေါင်း တစ်မိနစ်လျှင် အကြိမ်နှစ်ရာသာသာရှိခဲ့ပါသည်။ လေရှူသံကို ခပ်လှမ်းလှမ်းမှ ကောင်းစွာကြားနိုင်ပါသည်။ ဟောပြောပြီးနောက် ရှုကွက်ပေးသောအခါ 'ဘောင်ချိန်ပေး' 'လျှော့မပေးနဲ့' 'တိုက်ပေး' ' ရှေ့စိတ်က တော်ချင်ရင် နောက်စိတ်တွန်းတင်' 'တော်ချင်တဲ့စိတ်က အဝိဇ္ဇာစိတ်' စသည့် လက်တွေ့ကျကျ အရပ်စကားဖြင့် ပြောကြားပြီး ဤတွင်ဖော်ပြရန် အကွက်တစ်ကွက် ကျန်နေပါသေးသည်။

ဦးအောင်ထွန်းသည် စိတ်ပုတီးစိပ်သော အခါများ၌ 'ဗုဒ္ဓ' ဟူသော စကားလုံးနှင့် 'အရဟံ' ဟူသော စကားလုံးတို့၏အဓိပ္ပာယ်ကို သဘောမပေါက်နိုင်သောကြောင့် ဘဝင်မကျဖြစ်ခဲ့ပါသည်။ ဤတွင် ဖော်ပြရန် အကွက်တစ်ကွက် ကျန်နေပါသေးသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၇ )

မိမိနှစ်သက်သော စကားလုံးသည် 'မြတ်စွာဘုရား' သာဖြစ်ခဲ့ကြောင်း 'ဗုဒ္ဓ' နှင့် 'အရဟံ' အစား 'မြတ်စွာဘုရား မြတ်စွာဘုရား'ဟု နှုတ်မှရွတ်ဆိုပြီး ပုတီးစိပ်သောအခါ ရက်ပိုင်းအတွင်း သက်တော်ထင်ရှား မြတ်စွာဘုရားကို ဖူးတွေ့ခဲ့ရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၇)

## နေ့စဉ် တရားအားထုတ်ချိန် ဇယား

ထိုအချိန်မှစ၍ ဦးအောင်ထွန်းသည် အောက်ပါဇယားအတိုင်း တရားအားထုတ်ခဲ့ကြောင်း သိရပါသည်။



နံနက် ၄ နာရီမှ ၅ နာရီအထိ တရားထိုင်၊ ၅ နာရီမှ ၅ နာရီခွဲ အထိ ဘုရားဝတ်ပြု၏။

၅ နာရီခွဲမှ ၆ နာရီအထိ ယာဂု သောက်၏။

၆ နာရီခွဲမှ ၉ နာရီခွဲအထိ တရားထိုင်၏။

၉ နာရီခွဲမှ ၁၀ နာရီအထိ နံနက်စာစား၏။

၁၀ နာရီမှ ၁၂ နာရီ /၁ နာရီအထိ တရားထိုင်၏။

ညနေပိုင်းတွင် ၂ နာရီမှ ၅ နာရီခွဲအထိ တရားထိုင်၏။

ညနေ ၅ နာရီခွဲမှ ၇ နာရီအထိ ဘုရားဝတ်ပြု၏။

ည ၇ နာရီမှ ၁၂/၁ နာရီအထိ တရားထိုင်၏။

အထက်ပါဇယားကိုကြည့်လျှင် မည်၍မည်မျှ ကြိုးစားအားထုတ်ခဲ့ကြောင်း အကဲခတ်နိုင်ပါသည်။ မှက် ခြင်တို့ နှိပ်စက်သော ဒဏ်ရာကို သိလိုလျှင် ဦးအောင်ထွန်း ဝတ်ဆင်ခဲ့သော ပိတ်ဖြူသည် ဆေးဆိုးပန်းရိုက်ထားသော အထည်ကဲ့သို့ အနီကွက်များဖြင့် ပြည့်နှက်နေကြောင်း သိရှိနိုင်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၈ )

## ပထမအကြိမ် တရားထူး

၁၉၅၉ ဤသို့သော သဒ္ဓါတရားနှင့် လုံ့လ၊ ဇွဲ၊ ဝီရိယ တို့ကြောင့် ဦးအောင်ထွန်းသည် ပထမအကြိမ် တရားထူး တရားမြတ်ကို ၆ ရက်အတွင်း ရရှိခဲ့ပါသည်။ ဤကား ပထမ ထူးခြားချက်ဖြစ်၏။ ပထမအကြိမ် တရားထူးရသောနေ့မှာ အစ်မကြီး ဒေါ်ဖွားစိန်၏ ခြံဝန်းအတွင်းရှိ အုန်းနဲ့ပင်ကြီးအောက်တွင်ဖြစ်၏။ ထိုနေ့သည် ၁၃၂၁ ခု တော်သလင်းလဆန်း ၁၁ ရက် ၁၉၅၉ ခု၊ စက်တင်ဘာလ ၁၂ ရက်၊ စနေနေ့ ဖြစ်၏

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၉ )

## ၆ ရက်နှင့် တရားထူးရ

၆ ရက်မျှသာ တရားအားထုတ်ရုံနှင့် ပထမအကြိမ်တရားထူးကို ရရှိခဲ့သော ဦးအောင်ထွန်းမှ အံ့ဖွယ်မဟုတ်လျှင် အဘယ်အရာသည် အံ့ဖွယ်ဖြစ်အံ့နည်း။

(ကျမ်းကိုး၊ မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊
အတွဲ (၄)၊ အမှတ် (၂၅)၊ ၁၉-၉-၂၀၀၅)

## လပေါင်း ၂၀ နှင့် ရက်ပေါင်း ၁၃ ရက်အတွင်း တရားထူး ၃ ကြိမ်ရ

သဲအင်းဂူ ဆရာတော်လောင်းလျာ တရားအားထုတ်ခဲ့သည်မှာ ၁၃၂၁ခု တော်သလင်းလဆန်း ၆ ရက်မှစ၍ ၁၃၂၃ ခုနှစ်၊ နယုန်လဆန်း ၇ ရက်နေ့အထိ လပေါင်း ၂၀ နှင့် ရက်ပေါင်း ၁၃ ရက် ကြာညောင်းခဲ့ပါသည်။ ထိုရက်အတောအတွင်း တရားထူး ၄ ကြိမ်၊ ၄ ခါတိတိ ရရှိခဲ့ရာ လူဝတ်ကြောင် ယောဂီအနေဖြင့် တရားထူး ၃ ကြိမ် ရရှိပြီးနောက် တစ်နှစ်ကြာသောအခါ ရဟန်းဘောင်သို့ ကူးပြောင်းခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၃၉ )



## စတုတ္ထအကြိမ် တရားထူးရ

စတုတ္ထအကြိမ် တရားထူးကို ရဟန်းဘဝဖြင့် ရရှိခဲ့ပါသည်။ ဤသို့ဖြင့် လူဆိုးဓားပြဗိုလ်ဖြစ်သော ဦးအောင်ထွန်းသည် ပါရမီထူးသော ပုဂ္ဂိုလ်ထူးဖြစ်သောကြောင့် ပထမအကြိမ် တရားထူးကို ၆ ရက်နှင့် ရပြီးနောက် လပေါင်း ၂၀ ရက်နှင့် ရက်ပေါင်း ၁၃ ရက်အတွင်း တရားထူးတရားမြတ်ကို ၄ ကြိမ် ၄ ခါ ရခဲ့သည်မှာ အံ့ဩဖွယ်ရာ ဖြစ်ပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၃၉ )

## ပထမအကြိမ် တရားထူး

ပထမအကြိမ် တရားထူးကို ဒေါ်ဖွားစိန်၏ ခြံတွင်းရှိ အုန်းနှဲပင်ကြီးအောက်တွင် ရခဲ့ပြီးနောက် ဒုတိယအကြိမ် တရားထူးကိုလည်း ထိုခြံအတွင်းမှာပင် ရရှိခဲ့ခြင်း ဖြစ်ပါသည်။ တရားထူးရသောနေ့မှာ ၁၃၂၂ ခု၊ သီတင်းကျွတ်လဆန်း ၉ ရက်၊ စနေနေ့ နံနက် ၈ နာရီအချိန် ဖြစ်ပါသည်။

နောက်ကုန်းတွင် တရားအားထုတ်နေသော မိမိရသော တရားများကို အလွန်ဟောချင်စိတ်ရှိသည့်အားလျော်စွာ တရားဟောပြီးနောက် ကမာရွတ်သို့ တရားဟောရန် သွားခဲ့ပါသည်။

## တရားထူးရပြီးမှ အဖမ်းခံရ

ကမာရွတ်တွင် ၅ ရက်ကြာမျှ ကြာသောအခါ လူဆိုးများဖမ်းဆီးနေစဉ်နှင့် ကြုံကြိုက်သောကြောင့် ရှေးကတည်းက နာမည်ပျက်ရှိသော လူဆိုးစာရင်းဝင် ဦးအောင်ထွန်းမှာ ဘာမျှမလုပ်ဘဲနှင့် မဆီမဆိုင် အဖမ်းခံခဲ့ရလေသည်။ ၎င်းနောက် ရာဇဝင်လူဆိုးများနှင့်အတူ ဖမ်းဆီးခြင်းခံခဲ့ရပါသည်။ ထောင်ကြီးချုပ်သို့ ပို့ပြီးမှ ပြစ်မှုမရှိသောကြောင့် ပြန်လွှတ်လိုက်ပါတော့သည်။

(ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၄၁ )

ဦးအောင်ထွန်း တရားအားထုတ်ပုံမှာ ယခင်ကဲ့သို့ အာနာပါနအလုပ်ပင် ဖြစ်ပါသည်။ သမာဓိအရာမှာကား ဒုတိယအဆင့်ထက် နှစ်ဆပိုနေပါသည်။ မိမိခန္ဓာကိုယ်ကို အနားမပေးခဲ့ပါ။ ကိလေသာသေရမည်ဟု ဆုံးဖြတ်ထားပါသည်။

ဦးအောင်ထွန်းသည် အစားမမှန် အအိပ်မမှန်သောရက်က များလာသောအခါ ခန္ဓာကိုယ်ကြီးမှာ အင်အားချိနဲ့၍ နာတာရှည် လူမမာကြီးကဲ့သို့ ဖြစ်နေခဲ့ပါသည်။ ဆီးချုပ် ဝမ်းချုပ်ကလည်းဖြစ်နေပါသည်။

၁၉၆၀ သို့နှင့်ပင် အေဒီ ၁၉၆၀ ခု၊ မတ်လ ၁၅ ရက်၊ အင်္ဂါနေ့ (၁၃၂၂ ခု၊ တပေါင်းလဆုတ် ၄ ရက်နေ့) ညနေ ၃ နာရီအချိန်တွင် ၎င်း၏တူ မောင်ချင်းရောက် ခြံအတွင်း အပေါ့အလေးစွန့်ရန် ဆီးချုပ်ဝမ်းချုပ်ဒဏ်ကို ခံစားနေရစဉ် ရုတ်တရက် ထိုဒဏ်ရာများ လုံးဝပျောက်ကင်းပြီး အေးချမ်းသာယာသော နေရာသစ်တစ်ခုသို့ ရောက်သွားပါသည်။ ထိုနေရာတွင် အချိန်မည်မျှ ကြာနေသည်ကို မသိလိုက်ပါ။ အလွန်ချမ်းသာနေပါသည်။

စိတ်ဇောကျ၍ အသိစိတ်ဝင် လာသောအခါ ဩော် ငါရောက်ခဲ့သောဘုံသည် ကာမဘုံ၊ ရူပဘုံ၊ အရူပါဘုံတည်းဟူသော ဘုံသုံးပါး၏ အထွဋ်အထိပ်ပါကလား၊



ဉာဏ်အရာမှာလည်း အထွဋ်အထိပ်၊ သဗ္ဗညုတဉာဏ် တိုင်အောင် ရောက်သွားပါကလားဟု သိနေပါသည်။

ထိုအကြောင်းကို ထိုအသိဉာဏ်ကို ဆရာတော်ဟောသော အခါများ၌ လောကီနှင့် လောကုတ္တရာအကြား နယ်ခြားမှတ်တိုင်ပေါ် ထိုင်နေသည့်အသား ဟိုဘက်ဒီဘက် နှစ်ဘက်စလုံးကို မြင်နေရပြီဟု မိန့်တော်မူခဲ့ပါသည်။

ဤအခြေအနေသည် ဒုတိယအဆင့်မှ တတိယအဆင့် ကူးပြောင်းချိန် ဖြစ်ပါသည်။

တတိယအကြိမ် တရားထူးရပြီးနောက် စတုတ္ထအကြိမ်မရောက်မီ တွေ့ကြုံခဲ့ရသော အမြင်များကြောင့် တစ်နှစ်တိတိကြာသောအခါ ဦးအောင်ထွန်းသည် ရဟန်းဖြစ်ကို ခံယူလိုက်ပါသည်။ ရဟန်းဒါယကာမှာ မော်ဘီမြို့နေ ဦးစုရနှင့်တကွ လူတစ်ရာခန့်ဖြစ်ပါသည်။ ရဟန်းခံပွဲမှာလည်း တောသဘာဝအရ ကြီးကျယ်ခမ်းနားလှသည်ဟု ဆိုကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၃ )

တတိယအကြိမ် တရားထူးရပြီးသည့်နောက် စတုတ္ထအကြိမ်မရောက်မီ တွေ့ကြုံနေရသော အမြင်များကိုလည်း ဦးအောင်ထွန်းသည် ပြန်လည်ဟောကြားခဲ့ပါသည်။

## ပဒုမုတ္တရ ဘုရားထံ ဆုပန်ခဲ့

မိမိသည် ပဒုမုတ္တရ မြတ်စွာဘုရားလက်ထက်တော်တွင် ဆုပန်ခဲ့သည်များကိုလည်း ပြန်လည် သတိရသဖြင့် များစွာအားတက်မိကြောင်း ပြန်လည်ပြောကြားခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၄ )

## ပြဟ္မာဘုံသို့ တက်

ဤကဲ့သို့ အတိတ်ဘဝဖြစ်စဉ်များကို ဆင်ခြင်ပြီး ယခု ပစ္စုပ္ပန်ဘဝ တရားရှာနေပုံနှင့် အနာဂတ်ကာလ လားရာဂတိကို အာရုံပြုမိသောအခါ မိမိယခုသေသွားလျှင် သုဒ္ဓါဝါသငါးဘုံအနက် အထက်ဆုံး အကနိဋ္ဌ ပြဟ္မာဘုံတွင် စံရတော့မည်ကို သိသောအခါ အလွန်နှစ်သက် တွယ်တာပြီး နေခဲ့ပါသည်ဟုဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၄ )

## မြင်နေရပြီဟု ပြော

ဤကဲ့သို့ မြင်နေရပြီ ဖြစ်ကြောင်းကို မိခင်ကြီးနှင့်တကွ ညီငယ်များကို ပြောကြားခဲ့ပါသည်ဟု သိရပါသည်။

## နေ့စဉ် ပြဟ္မာဘုံသို့ နာမ်ညွတ်၍ စံစား



ယခု ယောဂီဝတ်ဘဝနှင့်ပင် မိမိစိတ်အာရုံဖြင့် တစ်နေ့လျှင် ၅ နာရီခန့် ၆ လတိုင်တိုင် ပျော်ပျော်ပါးပါး၊ နာမ်ညွှတ်၍ ပြဟ္မာဘုံတွင် စံစားနေခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၆)

(ကျမ်းကိုး၊ ထိုအကြောင်းအရာကို နေမင်းတစ်ဆူ သဲအင်းဂူဆရာတော် ဦးဥက္ကဋ္ဌ၏ ထေရုပ္ပတ္တိ အကျဉ်းချုပ်တွင် ဦးဘို (အကာလိကော)က ဖတ်ကြားပူဇော်ခဲ့ပါသည်။)

ဤသို့လျှင် တတိယအကြိမ် တရားထူးရရှိပြီးသည့်နောက် တစ်နှစ်တိတိကြာသောအခါ ဦးအောင်ထွန်းသည် ရဟန်းအဖြစ်ကို ခံယူလိုက်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၇ )

အမြင်ဉာဏ်သည် သမာဓိအင်အားကို အကြောင်းပြုပြီး တရားထိုင်ခါစကပင် အစပျိုးနေပြီဟု ဆိုသင့်ပါသည်။

ပထမတရားထိုင်ခါစတွင် အကြည်ဓာတ်တို့ကို ရရှိခဲ့ပါသည်။ အသက်ရှူထုတ်လိုက်သောအခါ လေတန်းကြီးကို မီးခိုးတန်းကြီးကဲ့သို့ မြင်နေခဲ့ရပါသည်။ မိမိခန္ဓာကိုယ်အတွင်း၌ရှိနေသော အူသိမ်အူမများကို မြင်နေသကဲ့သို့ အခြားပုဂ္ဂိုလ်တို့၏ အတွင်းသန္တာန်ကိုလည်း မြင်နေရပြန်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၇)

## အနီထောင် ကစားဝိုင်းထဲက အံစာတုံး

ဥသျှစ်ကုန်းရွာတွင် အာဝါဒေး ပွဲတော်ကျင်းပနေစဉ် အနီထောင် ကစားဝိုင်းကို မြင်နေရသည့်အပြင် စားပွဲပေါ်တွင် တင်ထားသော ကြေးအံစာတုံးဖြင့် ဖုံးအုပ်ထားသည့် အတွင်းအံစာတုံးကိုပါ တရားထိုင်နေသော နွှာကုန်းရွာမှ လှမ်းမြင်နေရပါသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၈)

## ရွာစောင့်နတ်

ရွာစောင့်နတ်နှင့်လည်း စကားပြောခဲ့ရကြောင်း၊ မြင်ခဲ့ရကြောင်း၊

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၈)

## ဆွေမျိုးတစ်ဦး ပြိတ္တာဖြစ်

မိမိနှင့် ဆွေမျိုးတော်ခဲ့ဖူးသော ပုဂ္ဂိုလ်တစ်ဦး အင်းထဲတွင် ပြိတ္တာဘဝဖြင့် သားငါးများရှာဖွေ စားသောက်နေသည်ကိုလည်း မြင်ခဲ့ရကြောင်း၊

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၈)



**နောက်ကန်းမှ ရွှေတိဂုံသို့**

နောက်ကန်းမှနေ၍ ရန်ကုန်တွင်ရှိသော ရွှေတိဂုံစေတီတော်ကိုလည်း လှမ်း၍ ဖူးမြော်ခဲ့ကြောင်း အမြင်ဉာဏ် အထွတ်အထိပ်သို့ ရောက်နေစဉ်၊

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၈)

**ပြဟ္မာဘုံသို့မြင်ရ**

ပြဟ္မာဘုံဘဝတွင် နေထိုင်ကြသော သတ္တဝါများကိုလည်း တွေ့မြင်ခဲ့ရကြောင်း၊

ယုတ်စွအဆုံး မိမိ၏ ဦးခေါင်းပေါ်တွင် ရှိသော ဆံပင်အဖျားအမည်းကိုပင် အမြင်ဓာတ်ဖြင့် ခွဲခြား၍ ပြသနိုင်ခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄၆ )

ဦးအောင်ထွန်းသည် တတိယအကြိမ် တရားထူးရပြီးသည့်နောက် ဆက်လက်၍ကျင့်ကြံအား ထုတ်ခဲ့ပြန်ရာ စတုတ္ထအကြိမ် တရားထူးရရန်အတွက် တွံတေးတောကြီးတန်းသို့သွား၍ တရားရှာမည်ဟု ကြံစည်ခဲ့သော်လည်း ယခုအခါ မှော်ဘီတွင်ပင် စတုတ္ထအကြိမ် တရားထူးရခဲ့သဖြင့် မူလအကြံအစည်ကို ဖျက်ပစ်လိုက်ပြီးလျှင် သဲအင်းဂူ လေးတိုင်စင်ရွာသို့ ပြန်လာခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၀ )

ထိုအချိန်အခါက ဦးပဥ္စင်းကြီးသည် မိမိတွေ့မြင်ရသောတရားများကို ဓမ္မမိတ်ဆွေများအား တသွင်သွင် မရပ်မနား တရားဟောလေ့ရှိကြောင်း၊ တရားဟောသောအခါ များသောအားဖြင့် မျက်စိကို စုံမှိတ်ထားလေ့ရှိကြောင်း၊ ဦးပဥ္စင်းကြီး ဟောသောတရားများမှာ ထူးခြားသည်ကို သိကြသော်လည်း မည်၍မည်မျှ ထူးခြားနေကြောင်း အတိုင်းအတာကို မခန့်မှန်းနိုင်သောကြောင့် မိမိတို့ထက် ကျမ်းကျင် လိမ္မာသော လူပညာရှိ၊ ရဟန်းပညာရှိများထံ ဦးပဥ္စင်းကြီးအားပင့်၍ တရားစစ်ဆေးလေ့ရှိကြောင်း သိရပါသည်။ မှော်ဘီတစ်ဝိုက်တွင် ကြိုးစားခဲ့သော်လည်း ထိုဓမ္မမိတ်ဆွေတို့၏ ဆန္ဒမှာ မပြည့်ဝခဲ့ပေ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၃ )

၁၉၆၁ ထို့ကြောင့် အေဒီ ၁၉၆၁ ခု၊ ၁၉၆၁ ခု၊ ဒီဇင်ဘာ ၂၃ ရက်၊ စနေနေ့ (၁၃၂၃ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၁ ရက်နေ့)တွင် ဦးပဥ္စင်းကြီးအား အရိယာ ဘုံသွား ဉာဏ်လေ့ကား အမည်ရှိသော တရားစာအုပ်ကို ပြုစုရေးသားတော်မူသော သန်လျင်တောရဆရာတော်ဦးတိလောကဉာဏပီကေထံသို့ တရားစစ်ဆေးခြင်း ခံယူရန် ပင့်သွားကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၃ )

သဲအင်း ဦးပဥ္စင်းကြီးဦးဥက္ကဋ္ဌ သန်လျင်တောရကျောင်းတိုက်တွင် တရားစစ်ဆေးပြီး နားနေ တော်မူနေစဉ် အနီးအနားရွာများမှ ရာထောင်မက လူထုကြီးသည် တောရကျောင်းတိုက်အတွင်းသို့ ရုတ်ရုတ်သဲသဲဝင်လာကြပြီး သဲအင်းဦးပဥ္စင်းကြီးကို မြင်ရသောအခါ ပျပ်ဝပ်ညွတ်ကျိုး လက်စုံမိုး၍ ကန်တော့ကြပါသည်။

၎င်းကိုယ်တော်ကြီးသည် မိမိတို့၏ မျက်မြင်ရေကန်အတွင်းမှ ဘွားခနဲ



ပေါ်လာပြီး ကောင်းကင်ယံတွင် ရှာန်ပျံနေခဲ့ကြောင်း၊ ထို့နောက် ဤကျောင်းတိုက်အတွင်းသို့ သက်ဆင်းခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၃ )

မိမိတို့မျက်မြင်ဖြစ်သည်ဟု အားရရွှင်လန်းစွာ ပြောဆိုရင်းဖူးမြော်ကြပါသည်။ ထိုအချိန်မှစ၍ ဦးပဥ္စင်းကြီး ဦးဥက္ကဋ္ဌအား ရဟန္တာဟူ၍ လူအများက သမုတ်လာကြသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၄ )

မည်သို့ပင်ဖြစ်စေ ဦးပဥ္စင်းကြီးသည် ပဌမသိက္ခာတော် တစ်ဝါတွင်လေးတိုင်စင်ဂူကျောင်းမှာပင် မိမိတရားနှင့်မိမိ အငြိမ်းစား အေးချမ်းစွာ နေထိုင်ခဲ့ရြားသော်လည်း တစ်ယောက်ကအစ သတင်းဖြာလာသောအခါ ကိုးကွယ်သူများသည်ထက် များလာသောကြောင့် ဒုတိယနှစ်ဝါမှ အစ (၁၁) ဝါတိုင်တိုင် နေ့မအား ညမလပ် ခန္ဓာကိုယ်ကို မငဲ့ကွက်ပါဘဲလျက် သိက္ခာတော်(၁၂)ဝါ အသက်ခန္ဓာချုပ်ပျက်သည်ထိ သာသနာပြုခဲ့ပါသည်။ ဆရာတော်ဘုရားသည် မူလတရားကျင့်စဉ်က မည်သူမည်ဝါအား ချွတ်ရန်ဟူသော ရည်ရွယ်ချက်ဖြင့် တရားအားထုတ်ခြင်းမဟုတ်ပါ။ မိမိကိုယ်တိုင် တရားရရန် အားထုတ်ခြင်းသာ ဖြစ်ပါသည်။

> သို့သော် တရံရောအခါက လူလေးယောက်လာရောက်ပြီး အရှင်ဘုရား ကျွတ်ထိုက်သောသတ္တဝါများကို ချွတ်တော်မူပါဟု လျှောက်ထားခဲ့သည်ကို ကတိပေးမိသောကြောင့် ဤကဲ့သို့ တရားပြနေခြင်းဖြစ်ပေသည်။ ထိုလူလေးယောက်တို့သည် အကာလ ညအခါ လာရောက်ခြင်းမှာ စဉ်းစားဖွယ်ရာဖြစ်သည်ဟု ဆင်ခြင်မိသောအခါ ပြဟ္မာကြီး လေးဦးဖြစ်နေသည်ကို သိရပေသည်။ ထိုပုဂ္ဂိုလ်လေးဦးအပြန်တွင် မြေလျှင်လျှပ်သွားသည်ဟုဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၄)

သဲအင်းဂူ ဆရာတော်ဘုရားကြီးထံ လာရောက်ကြကုန်သော ယောဂီအချို့က တေဝိဇ္ဇပုဂ္ဂိုလ်မြတ် အစစ်ကြီး ဖြစ်ခါနေပါတော့သည်ဟူ၍လည်းကောင်း အကာလိကမဂ္ဂကထိကဆရာတော် ဦးသြဘထကလည်း မှော်ဘီရဟန္တာ ဟူ၍လည်းကောင်း၊ စာအားဖြင့် ရေးသားကြပါသည်။ သဲအင်းဂူ ဆရာတော်ဘုရား၏တရားတော်ကို သဲအင်းဂူကျောင်းတိုက်သို့ လာရောက်၍ ခန္ဓာကိုယ်တွေ့ ပွားများအားထုတ်သူ ယောဂီအရေအတွက် များပြားလှပါ၏။

ရွှေလှေကြီး ဆရာတော်၊ ဘီးလင်း လေသာဆရာတော်၊ ခနုဖြူသပြူဆရာတော်၊ မြင်းမူဆရာတော်၊ သရက် တောရဆရာတော် စသည်အားဖြင့် ထေရ်ကြီးဝါကြီး အမြောက်အမြား လာရောက်၍ တရားအားထုတ်ကြပါသည်။ ရန်ကုန်မြို့ ဘုရားကြီးတိုက် နာယက ဆရာတော်တစ်ပါးဖြစ်သော ဘဒ္ဒန္တဥတ္တမသည် အနုညာတ ခုံရုံးကိစ္စပြီးပြတ်သောအခါ သဲအင်းဂူကျောင်းတိုက်သို့ ကြွရောက်တရားအားထုတ်တော်မူခဲ့ပါသည်ဟု ဆိုပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၅)

သဲအင်းဂူဆရာတော်ဘုရား တရားဟောပွဲများတွင် ပဏ္ဍာမပွဲဦးထွက် ပလ္လင်ဆင်း၍ ကူညီအားပေးတော်မူကြသော ဆရာတော်ဘုရားများမှာ ခမုံဆရာတော်၊ သုံးခွမြို့နယ်သုသာန် ဆရာတော်၊ ဇီးကုန်းကြီးဆရာတော်၊ ဥက္ကလာ ကျိုက်ဒေးယျံဆရာတော် စသည်ဖြင့် ထေရ်ကြီးဝါကြီး ဓမ္မကထိကများ ဖြစ်ပါသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၆)



ဆရာတော်ဘုရားကြွရောက်၍ သာသနာပြုခဲ့သော နေရာများမှာ အထက်မိုးကုတ်မှအောက် ရေး၊ မြိတ်၊ ထားဝယ်ထိ၊ အနောက်စစ်တွေမှ အရှေ့တောင်ကြီးမြို့များအထိ၊ မြန်မာပြည်အနှံ့အပြား ဖြစ်ပါသည်။

ပရိယတ္တိထွန်းကားသော မြို့ကြီးများတွင် မန္တလေး၊ ညောင်တုန်းနှင့် နှင်းပုလဲများတွင် ကြွရောက် တရားပြခဲ့သည်။

နှင်းပုလဲ ပရိယတ္တိစာပြန်ပွဲတော်ရက်များ အတွင်း၌ပင် ဆရာတော်၏ ကျင့်စဉ်များကို ချီးမြှင့်ရန် လေသာဂိုဏ်း ဆရာတော်များက ပင့်ဖိတ်လှေ့ရှိခဲ့ပါသည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၆)

နယ်သို့ ဆရာတော်ဘုရား တရားဟောထွက်သောအခါများတွင် တရားပွဲရက်ချိန်အမီ ကြွရောက် ရာလမ်းခရီးတွင် မိုးဒဏ်၊ လေဒဏ် မိုင်းဗုံးဒဏ် လက်နက်ကိုင်တိုက်ပွဲဒဏ် စသည့်ဘေးအပေါင်းတို့မှ အံ့ဩဖွယ်ရာ လက်မတင် လွတ်မြောက်ခဲ့သော သာဓကများရှိပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅၇)

၁၉၇၃ ဆရာတော်ဘုရားကြီးသည် အသက်တော် ၆၂ နှစ် အရွယ်တော်သို့ရောက် သည့်ကာလ ၁၉၇၃ခုနှစ် ဇွန်လ ၂၃ ရက်၊ စနေနေ့တွင် ဂိလာနအဖြစ် ရန်ကုန် ဆေးရုံကြီးသို့ တက်ရောက်ကုသခဲ့ရာ ဇူလိုင်လ ၈ ရက် တနင်္ဂနွေနေ့ ညနေ ၄ နာရီ ၄၅ မိနစ် ထွက်လေဝင်လေ ဤနှစ်ထွေ ငြိမ်သက် ရပ်စဲသွားတော်မူသည့် အချိန်တိုင်အောင် မိမိ၏ဝသီဘော် ပြုခဲ့သော တရားတော်ကိုဆင်ခြင်လျက် ပွားများ လျက်၊ တည်ငြိမ်စွာ သီတင်းသုံးတော်မူခဲ့သည်ဟု သိရပါသည်။

(ကျမ်းကိုး၊ ဤကားနေဝန်းတစ်ဆူ သဲအင်းဂူဟူ၍လည်းကောင်း၊ သဲအင်းဖွဲ့တင်းအမြဲလင်း ဟူ၍လည်းကောင်း၊ ကြည်ညိုဖွယ်ကျော်ကြားသော တေဝိဇ္ဇပတ္တရဟန္တာအရှင်သူမြတ် ကျေးလူးရှင်သဲအင်းဂူ ဆရာတော်ဘုရားကြီး အရှင်ဦးဥက္ကဋ္ဌ၏ အကြောင်းအရာတို့ကို ကျွန်ုပ်တို့ မသိသမျှတို့ကိုသိသော ဦးဘို(အကာလိကော)၏ မှတ်စုမှ ကောက်နုတ်ချက်တို့ ဖြစ်ပေသည်။ မောင်ပန်းမွေး၊ အချစ်ဂျာနယ်၊ အတွဲ (၄)၊ အမှတ် (၂၆)၊ ၂၆-၉-၂၀၀၅။) ကို ကြည့်ပါ။

ကျမ်းကိုး ။ ။ မသူကျော်သွား သိသူဖော်စား ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ပေါင်းချုပ်ကြီး တေဝိဇ္ဇရဟန္တာအရှင်မြတ် သဲအင်းဂူဆရာတော်ဘုရားကြီး (၁)အချစ်ဂျာနယ်၊ အတွဲ ၄၊ အမှတ်၂၄၊ ၁၃-၉-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။ တေဝိဇ္ဇရဟန္တာ အရှင်မြတ် သဲအင်းဂူဆရာတော်ဘုရားကြီး (၂) အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ်၂၅၊ ၂၀-၉- ၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။ တေဝိဇ္ဇ ရဟန္တာအရှင်မြတ် သဲအင်းဂူ ဆရာတော်ဘုရားကြီး (၃) အချစ်ဂျာနယ်၊ အတွဲ ၄၊ အမှတ်၂၆၊ ၂၇-၉-၂၀၀၅ တွင် ပါခဲ့ပြီးဖြစ်ပါသည်။

# သာမညတောင် ဆရာတော်ဘုရားကြီး ဦးဝိနယ

အေဒီ ၁၉၁၂ – ၂၀၀၃ (၁၂၇၄ –၁၃၆၅ )





(ကျမ်းကိုး၊ ဆရာတော်ကြီး၏ ထေရုပ္ပတ္တိကို ၁၃၅၂-ခုနှစ်၊ (၁၉၉၀) ပြည့်နှစ်တွင် အရှင်စန္ဒိမာ (သာသနာ့ဗေဓမှာစရိယ) က 'သာမညတောင် မော်ကွန်းမှတ်တမ်း'ဟု ကမ္ပည်းထိုးပြီး ကျောက်စာအက္ခရာတင်ထားခဲ့ပါသည်။)

## သာမညတောင် မော်ကွန်းမှတ်တမ်း

ဤသာမညတောင်သည် ကရင်ပြည်နယ် ဘားအံမြို့နယ် သာယာကုန်း ကျေးရွာအုပ်စု ဧရိယာနယ်မြေတွင် တည်ရှိပါသည်။

ဤတောင်နှင့် အနီးပတ်ဝန်းကျင်ရှိ တောင်များအားလုံးကို မြစိမ်းတောင်ဟု ရှေးက ခေါ်ဆိုကြ၏၊ ဤနယ်မြေတွင် မကြာသေးသော ၁၀ စုနှစ်လောက်က စိမ့်ကြီး ဂနိုင်ကြီး သစ်ကြီးဝါးကြီးများ ထူပြောလွန်း၍ တောလိုက်မုဆိုးများပင် မျက်စိလည် လမ်းမှားကြ၏၊ သားရဲတိရစ္ဆာန်မျိုးစုံနေကြ၏၊

ဤတောင်၏ တိတ်ဆိတ်ခြင်း၊ ဘေးရန်မရှိခြင်း၊ လူသူအရောက်အပေါက် နည်းခြင်း၊ အစာရေစာပေါများခြင်း၊ ရာသီဥတု မျှတခြင်းတို့ကြောင့် စွန့်စား၍ တရား စစ် တရားမှန်ရှာသော ရသေ့ရဟန်း ယောဂီ သူတော်စင်တို့နှင့် ကင်းဆိတ်ခြင်း မရှိပါဟုဆိုကြ၏။

ကြီးမားလှသော သရက်ပင်များ အုပ်မိုးထား၍ နေရောင်မသန်းသည့် တောင်ထိပ် ခင်တန်းကြားတွင် သားရဲတိရစ္ဆာန်များနှင့် ကျေးငှက်သာရကာများ နေ့ရောညပါ ပြည့်နှက်ကာနေသောဟူ၏။

၁၉၈၀ ၁၃၄၁-ခုနှစ်၊ တပေါင်းလပြည့်ကျော်၊ ၂ ရက် (၃-၃-၈၀) တနင်္ဂနွေနေ့တွင် သက်တော် ၇၆၊ သိက္ခာတော် ၄၇ ဝါရှိ၊ သိက္ခာကာမ၊ လဇ္ဇီပေသလ၊ ဧကစာရီ ကျေးဇူးတော်ရှင်ဦးဝိနယဆရာတော်ဘုရားကြီးသည် ဘူမိနက်သန်အောင်မြေမှန်သော ဤမြစောညီနောင် စေတီရင်ပြင်သို့ ဖူးမြော်ရန်အလို့ငှာ ရောက်ရှိလာတော်မူ၏။

ဆရာတော်သည် စေတီယင်္ဂဏဝတ် ပြုပြီး၍ အဖော်မမှီး တစ်ဦးတည်းသာ နေသော ရသေ့ကြီးဦးမာလိစိန်၏ တစ်ခုတည်းသော တစ်ဖက်ရပ် ဖက်မိုးဝါးကျောင်း ငယ်၌ အုန်းမှုတ်ခွက်နှင့် ဝါးကျည်ထောက်မှ ရေစင်ရေအေးကို ဘုဉ်းပေးတော်မူ၏။

ဤသည်ကား ရောင့်ရဲလွယ်သော ခေါင်းပါးပြင်းထန်သော ကိလေသာတို့ကို ခါတွက်သော ရှေးရှေးအခါ တောရပ်နေ ရဟန်း သံဃာတော်များ၏ မင်္ဂပေါက်ဖိုလ်ဝင် ကျင့်ဝတ်ပေတည်း။

တစ်ရံရောအခါ ရှမ်းမင်းသားညီနောင်တို့ တည်ထားကိုးကွယ်ခဲ့သော မြစောညီနောင် လွမ်းစေတီ(၂)ဆူမှာ ယိုယွင်းပျက်စီးနေပြီဖြစ်၍ ပြုပြင်သူ ဒါယကာ တို့ကို ငံ့လင့်နေစဉ် ဆရာတော်ဘုရားကြီး ရောက်တော်မူလာခြင်းသည် အနာဂတ် သာသနာအတွက် အားတက်ဝမ်းသာကြောင်း လျှောက်ထားလာသော ရသေ့ကြီး၏ ပုဗ္ဗနိမိတ္တကထာကို ကြားသိရသော ဆရာတော်သည် 'သာသနာတော်အရေး အားရ ကျေနပ်စွာ မပြုရသေးသမျှ ဤတောင်ပေါ်ဌာနမှ အခြားသောအရပ်ဒေသသို့ ငါမကြွ' ဟု အဓိဋ္ဌာန်ပြုတော်မူ၏။

ထိုနေ့မှစ၍ ဆရာတော်ဘုရားကြီး၏ အဓိသီလ၊ အဓိစိတ္တ၊ အဓိပညာ သိက္ခာသုံးပါးကို အားထားကြည်ညို သဒ္ဓါပိုကြသော ဒါယကာတို့သည် သူငါအရင် ဖူးမြင်ရောက်လာကြကုန်၏။

များပြားစွာသော ဒါယကာတို့က တိရစ္ဆာန်အညစ်အကြေးများနှင့် ချုံနွယ်



ပိတ်ပေါင်းတို့ကို ခုတ်ထွင်ရှင်းလင်းကုန်၏။

ပျက်စီးနေသော စေတီ ၂ ဆူကိုလည်း မွမ်းမံပြင်ဆင်ပြီး ထီးတော် အသစ်တင်လှူတော်မူ၏။

(ဝ) လုံးကျောင်း၊ နောင်ရွှေ သာယာကုန်း၊ ဝင်းစိန်၊ ခနိမ်းဒိုး၊ ကော့ကဒါ၊ ကံကြီးဝိနယမိက အလှူမြွှာရုံ ဆွမ်းစားကျောင်းတို့ကို အမြန်ဆောက်လုပ်လှူဒါန်းကြကုန်၏။

ထိုမှ နောက်ကာလ၌ ခဏ္ဍာသိမ်တော်၊ အုတ်ကျောင်း၊ တရားနာ ဓမ္မာရုံကြီး၊ ဆွမ်းထမင်းကျွေးဓမ္မာရုံ၊ ၂-ထပ် အုတ်ကျောင်း၊ ဣန္ဒကကျောင်း၊ သူဌေးကျောင်း၊ ဆွမ်းချက်အုတ်ဇရပ်၊ ဓာတ်မီးစက်ရုံ၊ သီရိမင်္ဂလာအုတ်ကျောင်း၊ အာရုံခံတန်ဆောင်းနှင့် တောင်ထိပ်ရေလှောင်ကန်ကြီးများ စသော သာသနိက အဆောက်အအုံတို့သည် ဖြစ်ထွန်းလာကုန်၏။

ရေစုပ်စက် ရေတင်စက်နှင့် ရေစစ်ကန်၊ ရေလှောင်ကန်ကြီးများ၊ စောင်းတန်းလှေကားများ၊ သာမည ကော့ကဒါလမ်း၊ သာမည သာယာကုန်းလမ်း၊ ရင်ပြင်တော်တက်သော ကားလမ်းတို့သည်လည်း ပြီးမြောက်ကုန်၏။

၁၉၇၉-၁၉၉၀ မြို့နယ်အရပ်ရပ်မှ ဘုရားဖူးလာကြသူတို့သည် နေ့စဉ်များပြားလှ၏၊ ပျမ်းမျှ တစ်နေ့လျှင် ဆန် ၁၀ တင်း ချက်ပြုတ် ကျွေးမွေးရ၏။ ဤကား ၁၃၄၁ ခုနှစ်မှ ၁၃၅၂ ခုနှစ်အထိ မှတ်တမ်းမော်ကွန်းတည်း။

၁၉၀၂ ကျေးဇူးရှင် ဆရာတော် ဦးဝိနယသည် ကရင်ပြည်နယ်မြို့တော် ဘားအံမြို့၏ ဆင်ခြေဖုံးဖြစ်သော ထောင်ပိရွာနှင့် ဆက်စပ်လျက်ရှိသော ပအို့ဝ်ကောကျိုက်ကျေးရွာကြီးတွင် ဥစ္စာနေ ပြည့်ဝကုံလုံသော ခမည်းတော် ဦးတောင်အို မယ်တော် ဒေါ်မအုံးတို့မှ ၁၂၇၄ ခုနှစ်၊ ပထမဝါဆိုလဆန်း ၆ ရက်နေ့၊ ဗုဒ္ဓဟူးနေ့နံနက် (၇) နာရီအချိန်တွင် မီးရှူးသန့်စင် ဖွားမြင်ခဲ့သော တတိယမြောက် သားရတနာဖြစ်၏။

၁၉၂၆ ငယ်မည် မောင်ရွှေဝိုင်း(ခေါ်)ခွန်ဝိုင်းကျော်ဖြစ်၏။ မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟကို ခံယူ၍ ၁၂၈၇ ခုနှစ်တွင် ရှင်သာမဏေ ဝတ်ခဲ့ပြီး၊ ၁၂၉၄ ခုနှစ်၊ ကဆုန်လပြည့်နေ့၌ မော်လမြိုင်မြို့ ကြံခင်းကျောင်းဆရာတော် ဦးအာစရကို ဥပဇ္ဈာယ်ပြု၍၊ ကျိုက်သန်လန်ဘုရား ရတနာဘုံမြင့်ကျောင်း ခဏ္ဍာသိမ်တော်၌ မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်ရှိတော်မူ၏။

ဆရာတော်ဘုရားကြီးသည် သနားခြင်း၊ သည်းခံခြင်း၊ ပေးကမ်းလှူဒါန်းခြင်း၊ မိမိသည်သာ အနစ်နာခံခြင်းတို့ကို ကြည်ညို၍မဆုံးဖြစ်၏။ ပစ္စက္ခသံသရာ နှစ်ဖြာအကျိုး ဖြစ်ထွန်းသော အောက်ပါ ဆုံးမဩဝါဒတော်ကို အခွင့်အခါသင့်တိုင်း လှူဒါယကာတို့အား ပို့ချသင်အံ အာဂုံဆောင်စေတော်မူ၏။

"ဦးမပျင်းနှင့်၊ ခုလည်း မပျင်းနှင့်၊ နောင်နောင်လည်း မပျင်းနှင့်၊ ဖွ-သွားဟ"

၁၉၉၀ သာသနာတော်နှစ် ၂၅၃၄၊ ဒကာဇာသက္ကရာဇ် ၁၃၅၂ ခုနှစ်၊ ၁၉၉၀ ခုနှစ်၊ ဆရာတော် အထောက်အပံ့ခံ၊ နိုင်ငံတော်အစိုးရ သာသနာ့ဝေ ဓမ္မာစရိယ ဘွဲ့တံဆိပ်တော်ရ အရှင်စန္ဒိမာက မှတ်တမ်းပြုစုပါသည်။ ဘားအံမြို့နယ် ခရားအတွင်းရွာနေ ဦးစံငြိမ်း၊ ဇနီး ဒေါ်အေးရင် နှင့် ဦးဘညွန့်၊ ဇနီး ဒေါ်ငွေတင်တို့ မိသားစု ကောင်းမှု။

အထက်ပါ အချက်အလက်များပါ ဆရာတော်ကြီး၏ ထေရုပ္ပတ္တိကို ၁၃၅၂-ခုနှစ်၊ (၁၉၉၀)



ပြည့်နှစ်တွင် အရှင်စန္ဒိမာ (သာသနာ့ဓဇမဟာစရိယ)က 'သာမညတောင် မော်ကွန်းမှတ်တမ်း' ဟု ကမ္ပည်းထိုးပြီး ကျောက်စာအကွရာတင်ထားခဲ့ပါသည်။

**သာမညဆရာတော် ထေရုပ္ပတ္တိအကျဉ်း**

သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၌ ရိုက်နှိပ်သော သာသနာပြု ဘွဲ့တံဆိပ်တော်နှင့် ကမ္ပဌာန်းနည်းပြဘွဲ့၊ သာသနာ့နုဂ္ဂဟ ဘွဲ့တံဆိပ်ရ ထေရုပ္ပတ္တိနှင့် အတ္ထုပ္ပတ္တိ စာအုပ်ကြီးတွင် ပါရှိသော သာမညဆရာတော်၏ ထေရုပ္ပတ္တိမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

၁။ **ဘွဲ့တော်** - ဘဒ္ဒန္တဝိနယ။

၂။ **ကျောင်းတိုက်** - သာမညတောင်ပေါ် ကျောင်းတိုက်၊ ဘားအံ မြို့နယ်၊ ကရင်ပြည်နယ်။

၃။ **အသက်၊ သိက္ခာ - ဂိုဏ်း** - သက်တော် (၈၀)၊ သိက္ခာတော် (၆၀)ဝါ၊ သုဓမ္မာဂိုဏ်း။

၄။ **မွေးသက္ကရာဇ်** - ၁၂၇၄-ခုနှစ်၊ ပထမဝါဆိုလဆန်း (၆)ရက်၊ ဗုဒ္ဓဟူးနေ့။

၅။ **ဇာတိရပ်ရွာနှင့် ခမည်းတော် မယ်တော်တို့၏ အမည်** - ကရင်ပြည်နယ်၊ ဘားအံ မြို့နယ်၊ ကော့ကျိုက်ပအို့ရွာ၊ ဦးတောင်အို၊ ဒေါ်အုန်း။

၆။ **ရှင်သာမဏေပြုခြင်း** - ၁၂၈၅ ခုနှစ်တွင် မော်လမြိုင်မြို့ ကြံခင်းကျောင်း၊ ဆရာတော် ဘဒ္ဒန္တအာစာရကို ဥပဇ္ဈာယ်ပြု၍ မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရှင်သာမဏေ အဖြစ်သို့ ရောက်သည်။

၇။ **ရဟန်းပြုခြင်း** - ၁၂၉၄ ခု၊ ကဆုန်လပြည့်ကျော် (၁၅)ရက်၊ သောကြာနေ့၊ နံနက် (၇)နာရီအချိန်တွင် မော်လမြိုင်မြို့၊ ကြံခင်းကျောင်းဆရာတော် ဘဒ္ဒန္တအာစာရကို ဥပဇ္ဈာယ်ပြု၍ မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟကိုခံယူကာ မော်လမြိုင်မြို့ ရတနာဘုံမြင့်ကျောင်း ခဏ္ဍသိမ်၌ ရဟန်းအဖြစ်သို့ရောက်သည်။

၈။ **စာပေသင်ယူခြင်း** - ကော့ကျိုက်ပအိုဝ်းရွာကျောင်း၊ မော်လမြိုင် ရတနာဘုံမြင့်ကျောင်း၊ ကြံခင်းကျောင်းဆရာတော် ဘဒ္ဒန္တအာစာရ။ မုတ္တမ ကျွဲခြံကျောင်း၊ ကတိုးရွာကွင်းကျောင်း၊ တိုက်ကုလား၊ တောင်စွန်း၊ သရက်ကုန်းကျောင်း ဆရာတော် ဘဒ္ဒန္တကုက္ကုစာရ စသော ဆရာတော်တို့၏ ထံရင်းတို့၌ ပိဋကတ်ကျမ်းစာများကို သင်ယူခဲ့သည်။ ထို့ပြင် ပဋိပတ္တိကျင့်စဉ်များကိုလည်း လေ့လာသင်ယူခဲ့သည်။

၉။ **အောင်မြင်သောစာမေးပွဲများ** - ကျမ်းကြီးပေါက် သင်ယူတတ်မြောက်ခဲ့သည်။

၁၀။ **စာပေပို့ချခြင်း** - ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ဝါးဆူးကျောင်း သာမညတောင်ပေါ် ကျောင်းတို့၌ စာပေပို့ချခဲ့သည်။

၁၁။ **သာသနာရေးတာဝန်ဆောင်ရွက်ချက်များ** - ဘားအံမြို့နယ် သာမညတောင်ပေါ် ကျောင်းတွင် သီတင်းသုံးနေထိုင်ကြသော ရဟန်း သာမဏေ သီလရှင် (၃၀၀)ကျော်တို့အား ဝိပဿနာ ရှုမှတ်ကျင့်ကြံနည်းများကို ညွှန်ပြခြင်း၊ နေ့စဉ် ရောက်ရှိလာသော ၁၀၀-မှ ၁၅၀-အထိ ဧည့်ပရိသတ်များကို တရားဓမ္မဟောကြား ညွှန်ပြခြင်း စသည့် တာဝန်များကို ဆောင်ရွက်သည်။

၁၂။ **ရေးသားပြုစုသော ကျမ်းဂန်များ** - မရှိ။

၁၃။ **ရဟန်းရှင်လူတို့၏ ကြည်ညိုလေးစားမှု** - မေတ္တာစိတ်ကြီးမားခြင်း၊ ခမာ ဇာဂရိယ စသော နာယက ဂုဏ်၊ သိက္ခာ ကာမ၊ ဝိနယ ဂရုက၊ သံသာရ ဘီရုက စသော ဂုဏ်တို့နှင့် ပြည့်စုံခြင်းကြောင့် ရဟန်းရှင်လူအများပြည်သူတို့၏ ကြည်ညိုလေးစားမှုကို ခံယူရရှိတော်မူပါသည်ဟူ၍ ဖြစ်ပါသည်။



(ကျမ်းကိုး။ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၌ ရိုက်နှိပ်သော သာသနာ ပြုဘွဲ့တံဆိပ်တော်နှင့် ကမ္မဋ္ဌာန်းနည်းပြဘွဲ့၊ သာသနာ့နုဂ္ဂဟ ဘွဲ့တံဆိပ်ရ ထေရုပ္ပတ္တိနှင့် အတ္ထုပ္ပတ္တိ)

အံ့ဖွယ်ထူးခြားသော သာမညတောင်ဆရာတော်၏ ဘဝဖြစ်စဉ်ကို လေ့လာရာတွင် အလွန်ပြည့်စုံစွာ ပြုစုထားသော ကျမ်းတစ်ခုမှာ ဆရာတော်ကြီး၏ တပည့်ရင်း ဦးစန္ဒိမာ (ဓမ္မာစရိယ) တည်းဖြတ်ပြီး ခွန်တိုးရှိန်၊ ခွန်သန်းမြင့်တို့ စီစဉ်ပူဇော်သော အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက သာမညတောင်ဆရာတော်၏ ဘဝဖြစ်စဉ်ကျမ်းဖြစ်ပါသည်။ ထိုကျမ်းကို ၁၉၉၃ ခု နိုဝင်ဘာလတွင် ရိုက်နှိပ်ပါသည်။ တန်ဖိုး ၂၅ ကျပ် ဖြစ်ပါသည်။ ထိုကျမ်းတွင် အလွန်သိရခဲသော ငယ်စဉ်ဘဝ ဖြစ်စဉ်များကို စေ့စေ့စုံစုံ ဖတ်ရှုရပါသည်။ အလွန်ကျေနပ်ကြည်ညိုဖွယ်ဖြစ်ပါသည်။ ပြန်လည်ထပ်ဆင့် ဖော်ပြပါမည်။ ကြည်ညိုတော်မူကြပါ။

## ဇာတိ

ကရင်ပြည်နယ်၊ မြို့တော်ဘားအံ၏ တောင်ဘက် ၄ မိုင်အကွာ ကော့ကျိုက်ပအိုဝ်းရွာကြီး၌ ရှိးသားသော ပအိုဝ်း တောင်သူလယ်သမားမျိုးရိုးမှ ဆင်းသက်လာသည်။

## ဖွားသက္ကရာဇ်

၁၉၁၂ — အဖ ဦးတောင်အိုး၊ အမိဒေါ်မအုံးတို့မှ အေဒီ ၁၉၁၂ ခု၊ ဇွန်လ ၁၉ ရက် (မြန်မာသက္ကရာဇ် ၁၂၇၄ ခုနှစ်၊ ပထမဝါဆိုလဆန်း ၆ ရက်) ဗုဒ္ဓဟူးနေ့နံနက် ၇း၀၀ နာရီအချိန်တွင် ဖွားသန့်စင်သည်။

ဆရာတော်၏ ငယ်နာမည် ခွန်ရွှေဝိုင်း ဖြစ်ပါသည်။ ခွန်ဝိုင်းကျော်ဟူ၍ အမိ အဘ အဘိုး အဘွားများက ချစ်စနိုး ခေါ်ခဲ့ကြသည်။ ဆရာတော်၏ မွေးချင်း ညီအစ်ကို (၄)ဦးရှိရာ အကြီးဆုံးမှာ ဦးထွန်းဘော၊ ဒုတိယမှာ ဦးအောင်ငြိမ်း၊ တတိယမြောက်မှာ ဆရာတော်ဖြစ်ပြီး၊ စတုတ္ထမြောက်မှာ ဦးစံမင်းဖြစ်ပါသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၂)

၁၉၁၈-၁၉၂၁ — ဆရာတော်သည် အသက် ၆ နှစ်အရွယ် အေဒီ ၁၉၁၈ ခု (၁၂၈၀ ) ခုနှစ်မှစ၍ ၉ နှစ်အရွယ် အေဒီ ၁၉၂၁ ခု (၁၂၈၃) ခုနှစ်အထိတွင် ကော့ကျိုက်ပအိုဝ်းရွာဘုန်းတော်ကြီးကျောင်း ဆရာတော်ဦးဇယန္တထံတွင် သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ အပြင်အောင်ခြင်း၊ အတွင်းအောင်ခြင်း၊ နမက္ကာရ၊ လောကနီတိ စသော အခြေခံသင်ရိုးများကို သင်ယူခဲ့ရသည်။

(ကျမ်းကိုး။ ယင်းကျမ်း စာ ၃)

၁၉၂၂ — အသက် ၁၀ နှစ်အရွယ် အေဒီ ၁၉၂၂ ခု (၁၂၈၄)ခုနှစ် ရောက်သော် မွေးရပ်ရွာမှတောင်ဘက် မိုင် ၃၀ အကွာတွင်တည်ရှိသော မော်လမြိုင်မြို့ ကျိုက်သန်လန်တောင်အနောက်ခြမ်း ကြံခင်းကျောင်းဆရာတော် ဦးအာစာရထံသို့ ရောက်ရှိပြီး ပညာသင်ကြားခဲ့ရသည်။

၁၉၂၆ — ဆရာတော်သည် အသက် ၁၃ နှစ်အရွယ် အေဒီ ၁၉၂၆ (မြန်မာသက္ကရာဇ် ၁၂၈၇ ခုနှစ်)တွင် မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ကော့ကျိုက်ပအိုဝ်းရွာ ဘုန်းတော်ကြီးကျောင်းတွင် သာမဏေဘဝခံယူသည်။ ဥပဇ္ဈာယ်ဆရာတော်မှာ ကော့ကျိုက်ပအိုဝ်းရွာကျောင်း ဆရာတော် ဦးဇယန္တဖြစ်သည်။ ဘွဲ့အမည် ရှင်ဝိနယ ဖြစ်သည်။

၁၉၂၆ — ရှင်ကျင့်ဝတ်များကို အောင်မြင်ပြီး၍ အသက် ၁၃ နှစ် အရွယ်၊ အေဒီ



၁၉၂၆ ခု၊ (၁၂၈၇)ခုနှစ် ရောက်သော်၊ ဇာတိမွေးရပ်မြေ ကော့ကျိုက်ပအိုင်းရွာသို့ ပြန်လာပြီး သာမဏေအဖြစ်ခံယူသည်။

ရှင်သာမဏေအဖြစ် ၇ ရက်ရပြီး နောက်နေ့တွင် ရွာမှ မော်လမြိုင်သို့ ပြန်ကြွတော်မူပြီး ဗုဒ္ဓစာပေ ကျမ်းဂန်များကို သင်ယူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၅ )

## လူထွက်ခြင်း

၁၉၃၁ ဆရာတော်သည် သာမဏေ ၆ ဝါ၊ အသက် ၁၈ နှစ် အေဒီ ၁၉၃၁ ခု (၁၂၉၂) ခုနှစ်တွင် သာမဏေမှထွက်ပြီး ရွာသို့ပြန်ခဲ့သည်။ မိဘများ၏ လယ်ယာလုပ်ငန်းကို ဝင်ရောက်လုပ်ကိုင်လေသည်။

## ရဟန်းဘောင်ဝင်တော်မူခြင်း

လယ်ယာလုပ်ငန်းတွင် ပျော်မွေ့ခြင်း မရှိသဖြင့်၊ မော်လမြိုင် ကြံခင်းကျောင်းသို့ ပြန်ရောက်ခဲ့ပြန်သည်။

၁၉၃၂ ဆရာတော် အသက် ၂၀ အရွယ် အေဒီ ၁၉၃၂ ခု၊ ဇွန်လ ၃ ရက်၊ သောကြာနေ့ (မြန်မာသက္ကရာဇ် ၁၂၉၄ ခု ကဆုန်လပြည့်ကျော် ၁၅ ရက်) လကွယ်နေ့တွင် မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ မော်လမြိုင်မြို့၊ ကျိုက်သန်လန်ဘုရား၊ တောင်ပေါ်ရှိ ရတနာဘုံမြင့်ကျောင်း ခဏ္ဍသိမ်တော်၌ ကြံခင်းကျောင်းဆရာတော် ဦးအာစာရကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၆ )

မော်လမြိုင် ရတနာဘုံမြင့်ကျောင်း၌ အထက်အညာ မိတ္ထီလာဇာတိ စာချဆရာတော် ဦးစန္ဒိမာထံမှ ဘုရားဂုဏ်၊ တရားဂုဏ်၊ သံဃာဂုဏ်တော်များနှင့် မေတ္တာဘာဝနာပွားပို့နည်းများကို လက်တွေ့ကျကျ သင်ယူဆည်းပူးခဲ့ရပေသည်။

၁၉၃၂ ဆရာတော်လောင်းလျာသည် အေဒီ ၁၉၃၂ ခု (၁၂၉၅ ခု) ရဟန်းဘဝ ပထမဝါကို ကြံခင်းကျောင်းတွင်ဝါဆိုသည်။ ယင်းဆရာတော်ထံ၌ ပရိယတ္တိစာပေများကို သင်ယူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇ )

၁၉၃၃ အေဒီ ၁၉၃၃ ခု (မြန်မာသက္ကရာဇ် ၁၂၉၅ ခုနှစ်) သက်တော် ၂၂ နှစ်၊ ရဟန်းသိက္ခာ ဒုတိယဝါတွင်၊ ဘီးလင်းမြို့နယ် ရွှေရောင်ပြတောရကျောင်း တောမှီ ရဟန်းတော် ဦးအုန်းခိုင်ထံရောက်ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇ )

## ရဟန္တာဟု ကျော်ကြားသော အရညဝါသီ တောမှီ ရဟန်းတော် ဦးအုန်းခိုင်

**အရညဝါသီတောမှီ ရဟန်းတော် ဦးအုန်းခိုင်သည် ထိုစဉ်အခါက နိုင်ငံအဝန်း ရဟန္တာဟု ထင်ရှားကျော်ကြားနေသည်။ ထိုဆရာတော်ထံမှ ဝိပဿနာတရားကျင့်ကြံအားထုတ်နည်းနှင့် ဩဝါဒများကို ခံယူမှတ်သားခဲ့ပြီး၊ တောင်စွန်းမြို့ ကျိုက်ထီးဆောင်း တောရကျောင်းတွင် တရားကျင့်ကြံအားထုတ်နိုင်ရန် သီတင်းသုံးခဲ့သည်။**

ရွှေရောင်ပြ တောရဆရာတော် ဦးအုန်းခိုင်သည် အသက်အသားမပါသော အသားလွတ် အာဟာရဖြစ်သည့် အသီးအနှံများဖြင့် တင်းတိမ်မျှတတော်မူသည်။



အသားလွတ်သုံးဆောင်နိုင်က ထူးခြားစွာ တရားမြဲမည်ဖြစ်ကြောင်း ဆရာတော် ဦးအုန်းခိုင်၏ ဆိုဆုံးမသြဝါဒစကားကို ယနေ့တိုင် နားဝယ်ကြားယောင်၊ အမှတ်ရ နေသည်ဟု ဆရာတော် အမိန့်ရှိဖူး၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇)

၁၉၃၄ ဆရာတော်လောင်းလျာသည် တတိယဝါအရတွင် မုတ္တမ ကျွဲခြံ၊ မရမ်းချောင် တောရဆရာတော် ဦးသီလထံသို့ရောက်ရှိပြန်သည်။ ဆရာတော်ထံမှ ကမ္မဋ္ဌာန်းတရား နည်းနာများ ခံယူခဲ့ရသည်။ ထို့နောက် အေဒီ ၁၉၃၄ ခု (၁၂၉၆ ခုနှစ်) တတိယ ဝါကျွတ်ချိန်တွင် ရင်းငြိမ်ပန်းတောကျောင်း ဆရာတော်ဦးဇဝနထံ ရောက်ရှိပြီး ကခ်ီဝိတရဏီ အဋ္ဌကထာကျမ်းကို သင်ယူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၇)

၁၉၃၅ အေဒီ ၁၉၃၅ (၁၂၉၇ ခုနှစ်) စတုတ္ထဝါတွင် မော်လမြိုင်မြောက်ဘက် တစ်ဖက်ကမ်း၊ ကတိုးကော့နှပ်ရွာ ကွင်းကျောင်းဆရာတော် ဦးဥတ္တမထံသို့ စာပေ ပညာဆည်းပူးရန် ရောက်ခဲ့ပြန်သည်။

စတုတ္ထဝါကျွတ်ချိန်ရောက်သော် မရမ်းကုန်း၊ ဘားလင်းတောင်စွန်းဘက်သို့ ပြန်ကြွ၍ တောင်စွန်းမှ တောင်ဘက် ပင်လယ်ကမ်းခြေဒေသဖြစ်သော မုသင် ဇုတ်သုတ် ဖွဲကလာသို့ ရောက်ခဲ့ရပြန်၏။ မုသင်ဆရာတော်ထံမှ အသုဘကမ္မဋ္ဌာန်း ရှုပွားနည်းကို သင်ယူခဲ့ရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈)

အသုဘကမ္မဋ္ဌာန်းတရား ရှုပွားခြင်းအလုပ်ကို လိပ်ခုံ၊ သံပုရာစေ့၊ ရွှေလှေ နှင်းပုလဲ၊ ဇုတ်သုတ်၊ ဖွဲကလာ၊ ညောင်ပလ္လင်ဒေသများတွင် သီတင်းသုံးစဉ် အထူး ကျင့်ကြံအားထုတ်ခဲ့ရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈ )

၁၉၃၆ အေဒီ ၁၉၃၆ ခု (၁၂၉၈ ခုနှစ်) ပဉ္စမဝါတွင် ဘားလင်းမြို့နယ် တောင်စွန်း သရက်ကုန်းကျောင်းဆရာတော်နှင့် ဦးနရိန္ဒထံတွင် ဝါကပ်ပြန်သည်။ ဝါတွင်း သုံးလပတ်လုံး ဆရာတော်ထံမှ ဝိနည်း ပါဠိတော်နှင့် အဘိဓမ္မာ စာပေကျမ်းများကို ဆက်လက်ဆည်းပူးခွင့်ရခဲ့သည်။

ထိုစဉ် အထက်မြန်မာနိုင်ငံမှ ကြွရောက်လာကြသော မကွေးဆရာတော်၊ အောင်လံဆရာတော်ကြီးများထံမှ အရဟံဂုဏ်တော်ပွားနည်း၊ မေတ္တာဘာဝနာ ပွားနည်း၊ ဝိပဿနာကမ္မဋ္ဌာန်း ရှုပွားနည်းများကိုထပ်မံ၍ လက်တွေ့ကျကျ သင်ယူခဲ့ ပြန်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉)

ဆရာတော်လောင်းလျာ အရှင်ဝိနယသည် နေ့စဉ် မနက်ည၊ နှစ်ကြိမ် ဘုရားဝတ်ပြုခြင်း၊ ဂုဏ်တော်ပွားများခြင်း၊ ကမ္မဋ္ဌာန်း စီးဖျန်းပွားများခြင်း၊ မေတ္တာဘာဝနာပွား ပို့လွှတ်ခြင်းကို ဝါတွင်း သုံးလပတ်လုံး ကြိုးစားအားထုတ်ခဲ့သဖြင့်၊ သီလအား၊ သမာဓိအား မြင့်မားလာပြီး ထူးထူးခြားခြား ဒကာ၊ ဒကာမများ၏ ကြည်ညိုလေးစားခြင်း ခံခဲ့ရပေသည်။ ဂုဏ်တော်တန်ခိုးစွမ်းအား ထူးခြား ကြီးမားပုံနှင့် မေတ္တာစွမ်းအား စူးရှထက်မြက်ပုံကို ကိုယ်တွေ့သိမြင်ခံစားခဲ့ရပေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၉)



ဆရာတော်လောင်းလျာသည် ပဌမဝါကျွတ်လျှင် ပရိယတ္တိစာပေကို ပေါက်မြောက်အောင် သင်ယူလိုသောဆန္ဒကလည်း ရှိနေပြန်သဖြင့် ရင်းငြိမ်ပန်းတောကျောင်းဆရာတော် ဦးဇဝနထံ ရောက်ရှိပြီး ဝိနည်းကို ပဓာနထားသင်ယူပြန်သည်။

ထို့နောက် မုသင်တိုက်ကျောင်း ဆရာတော်နှင့်အတူ ညောင်လေးပင် တောင်ကျောင်းတိုက် စာပြန်ပွဲသို့ ကြွရောက်ခဲ့ပြန်သည်။

၁၉၃၇ အေဒီ ၁၉၃၇ ခု (မြန်မာသက္ကရာဇ် ၁၂၉၉ ခုနှစ်၊ တန်ခူးလ)တွင် မြန်မာနိုင်ငံအရှေ့ဘက် ယိုးဒယားနိုင်ငံသို့ ခရီးထွက်ခွာရန် ပြင်ဆင်နေသည်ကို ကြားသိလျှင် အမိအဖပမာ လွန်စွာကြည်ညိုခဲ့ကြသော တောင်စွန်းမှ ဒါယကာ ဦးမောင်၊ ဒါယိကာမ ဒေါ်စိမ်းခင်နှင့် မိသားစုများ မော်လမြိုင်ထိလိုက်လာပြီး ခရီးမဆက်ဘဲ တောင်စွန်းသို့ ပြန်ကြွပါရန် အသနားခံ လျှောက်ထားကြ၏။ ၁၂၉၉ ခုနှစ်၊ သင်္ကြန် အခါတော် လွန်မြောက်ပြီးသည်နှင့် ခရီးဆန့်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃ )

## မဲဆောက်သို့ ရောက်ရှိခြင်း

ဆရာတော် မော်လမြိုင်၊ ကျုံဗိုး၊ ကော့ကရိတ်၊ မြဝတီလမ်းမှ သင်္ဘောတစ်ခါ ကားတစ်လှည့် လှည်းတစ်တန်ဖြင့် မဲဆောက်မြို့သို့ ခရီးပေါက်ခဲ့သည်။

မဲဆောက်မြို့ တောင်ကျောင်းကြီး ဆရာတော်ဦးပညာထံ ရောက်လေသည်။ တောင်ကြီးမြို့ အင်းလေးဒေသမှ ပအိုဝ်းမျိုးနွယ် ရဟန်းတစ်ပါးဖြစ်၍ မျိုးရိုးဗီဇ ယဉ်ကျေးမှုနှင့် ဘာသာစကားတူ ရဟန်းပျိုတစ်ပါး ကံထူးစွာရောက်ရှိလာသည်ဟု ဆရာတော်ကြီးကယူဆ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃)

၁၉၄၀ ဆရာတော်သည် အေဒီ ၁၉၄၀ ခု၊ အောက်တိုဘာ (မြန်မာသက္ကရာဇ် ၁၃၀၂ ခုနှစ်၊ ဝါကျွတ်ပြီး တန်ဆောင်မုန်းလ)တွင် ညီတော်ဦးစံမြင့် (ရဟန်းဘဝဖြင့်) ကိုယ်တိုင်ရောက်ရှိလာပြီး၊ ခမည်းတော် နေထိုင်မကောင်းကြောင်း လျှောက်ထားသဖြင့် ဆရာတော်ကြီးထံ အကြောင်းစုံ လျှောက်ထားခွင့်ပန်၍ မွေးရပ်မြေသို့ ပြန်ကြွခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄)

၁၉၄၀ ကော့ကျိုက်ပအိုဝ်းရွာသို့ ပြန်ရောက်ချိန်မှာ ကိုးဝါရပြီ။ သက်တော် ၂၈ နှစ်ပြည့်မြောက်သည့်နှစ်ဖြစ်သည်။

၁၉၄၀ ထို့နောက် ကော့ကျိုက်ကျောင်းဆရာတော် ဦးဇယန္တက၊ ဝါးဆူးကျောင်းတွင် ဆရာတော်အဖြစ် တာဝန်ချထားလွှဲအပ်သည်။ ကော့ကျိုက်ရွာ တောင်ဘက် တစ်မိုင်အကွာ ဝါးဆူးကျောင်းသို့ အေဒီ ၁၉၄၀ (၁၃၀၂ ခုနှစ်၊ တန်ဆောင်မုန်းလ)တွင် ကျောင်းထိုင်ရန် ရောက်ရှိခဲ့သည်။

၁၉၄၀ အေဒီ ၁၉၄၀ ခု (မြန်မာသက္ကရာဇ် ၁၃၀၂ ခုနှစ်) နှောင်းပိုင်းမှစ၍ ဆရာတော်ရောက်ချိန်တွင် ဝါးဆူးတိုက်ကျောင်းကြီးမှာ ဆောက်လုပ်ဆဲ၊ အုတ်ရိုး အကြမ်းထည်သာ ပြီးစီးသေးသည်။ ကျောင်းကြီး ပြီးစီးပြည့်စုံအောင် ဆရာတော် ဆက်လက်ဆောင်ရွက်ခဲ့ရသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄)

၁၉၄၈ ဝါးဆူးတောင်ကျောင်းကြီးဝင်းအတွင်း ကိုးနဝင်းစေတီနှင့် စေတီရံနှစ်ဆူပါ ရှိသော ကိုးနဝင်းစေတီကို အေဒီ ၁၉၄၈ (၁၃၀၉ ခုနှစ်)တွင် တည်ထားကိုးကွယ်ခဲ့ပြီး၊



နှစ်ချင်းထီးတော် တင်လှူနိုင်ခဲ့သည်။

၁၉၅၀ ထို့ပြင် အေဒီ ၁၉၅၀ (၁၃၁၂ ခုနှစ်)တွင် ဝါးဆူးရွာအနီး တဂုံးပနော်ရွာ ရှေးဟောင်းစေတီပုထိုးအား ပြန်လည်ပြုပြင် ထီးတင်နိုင်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၇)

၁၉၇၃ အေဒီ ၁၉၇၃ ခု (၁၃၃၅ ခုနှစ်)တွင် ကော့ကျိုက်ရွာတောင်ဘက်ရှိ ဘုရားကုန်းတော်မှ ရှေးဟောင်းဘုရားပျက်အား ပြုပြင်ခြင်း ထီးတော်တင်လှူခြင်းပြုခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၇)

၁၉၇၂ ဆရာတော်သည် သက်တော် ၆၀ ပြည့်သော၊ အေဒီ ၁၉၇၂ ခု (မြန်မာသက္ကရာဇ် ၁၃၃၄ ခုနှစ်) မွေးလ မွေးနေ့မှစ၍ ဝါးဆူးတိုက်ကျောင်းကြီးတွင် ဝါးဆူးရွာ၊ ကော့ကျိုက်ရွာမှ ဒကာများ ပူးပေါင်းပါဝင်လျက် မွေးနေ့မင်္ဂလာပွဲအလှူတော်ကို နှစ်စဉ်ကျင်းပခဲ့လေသည်။ အသက် အသားလွှတ် ဘုဉ်းပေးခြင်းကို ထိုပွဲတော်နှစ်မှ စတင်ခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈)

၁၉၇၂ ဆရာတော်သည် အေဒီ ၁၉၇၂ ခု (၁၃၃၄ ခုနှစ်)မှစ၍ သစ္စာပြုအဓိဋ္ဌာန် စခန်းဝင်ပြီး ဂုဏ်တော်ပွားများခြင်း တရားကျင့်ကြံအားထုတ်ခြင်းများ ပို၍စွဲမြဲလာသည်။ သီလစင်ကြယ်ပြီး၊ သမာဓိအားကောင်းလာသည်နှင့်အမျှ မေတ္တာတရားပွားပို့ခြင်းများကလည်း ရောင်ပြန်ဟပ်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၈)

၁၉၇၉ အေဒီ ၁၉၇၉ ခု ( မြန်မာသက္ကရာဇ် ၁၃၄၁ ခုနှစ် )မှစ၍ ဆရာတော်သည် နဝကမ္မ၊ ပလိဗောဓ အလုပ်များကို ဖြတ်တောက်လျက် ထိုကမ္မဋ္ဌာန်းကျောင်းသစ်တွင် ဇွဲလုံ့လကြီးစွာ အပြင်းအထန် ရှုပွားတော်မူခဲ့သည်။

ထိုအချိန်မှစ၍ ဆရာတော်၏ ကိုယ်နှုတ်နှလုံး၊ အမူအရာများ သိသိသာသာ ထူးခြားပြောင်းလဲလာသဖြင့် အနီးကပ်ဖူးမြင်ကြရသော ရဟန်းသံဃာများ ဒါယကာ၊ ဒါယိကာမများထံမှ အမျိုးမျိုးသော အတွေ့အမြင် သတင်းထူးများ၊ ချီးမွမ်းအံ့ဩ ပြောဆိုသံများ ထွက်ပေါ်လာခဲ့လေသည်။

၁၉၈၀ အေဒီ ၁၉၈၀ ခု (၁၃၄၂ ခုနှစ် တပေါင်းလပြည့်ကျော် (၁) ရက်နေ့)တွင် သာယာကုန်းရွာမှအထွက်၊ နောင်ရွှေရွာသို့အသွား၊ လှည်းလမ်းနံဘေး၌ တည်ထားသော ကိုးနဝင်းစေတီအား ဆွမ်းပန်းကပ်လှူပြီး နောင်ရွှေရွာသို့ ခရီးဆက်ထွက်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၀)

ဆရာတော်သည် နံနက်မိုးသောက် အလင်းရောက်၍ ဆွမ်းကိစ္စပြီးသည်နှင့် နောင်ရွှေကျောင်းတိုက်မှ ကိုရင်အောင်ဘော်၊ ကိုရင်ကိုပိုက်တို့ လိုက်ပါလျက် တောင်ပေါ်သို့ ကြွလေသည်။

၁၉၈၁ သာမညတောင်ပေါ် ရောက်သည့်နေ့ရက်မှာ အေဒီ ၁၉၈၁ ခု၊ မတ်လ ၂၁ ရက် (၁၃၄၂ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၂ ရက်) တနင်္ဂနွေနေ့၊ နံနက် (၀၇း၀၀) နာရီအချိန်ဖြစ်သည်။ ထိုအချိန် ဆရာတော်မှာဝါတော် ၄၇ ဝါ ရပြီး၊ သက်တော် ၆၇ နှစ် ရှိပြီဖြစ်သည်။



## ရသေ့ကြီး ဒါလီစိန်

ဘုရားကုန်းမြေပေါ် ခြေချချိန်တွင် ဆရာတော်၌ သက်န်း ၃ ထည်နှင့် သပိတ် ၁ လုံးသာ ပါသည်။

ဆရာတော် မရောက်လာမီ ယခင်ကတည်းကပင် ရသေ့တစ်ပါးက ဘုရားကုန်းမြေပေါ် ရောက်နှင့်နေပြီးဖြစ်သည်။ ဒါလီစိန် အမည်ရှိ ၎င်းရသေ့သည် ဘုရားတောင်ဘက် မြေနိမ့်ပိုင်းအရပ်တွင် မြေစိုက်ဖက်မိုး၊ တစ်ဖက်ရပ် တန်းလျားရှည်တစ်လုံးဆောက်၍နေသည်။

၎င်းတစ်ဖက်ရပ် ဖက်မိုးတန်းလျားမှာလည်း မိုးဒဏ်၊ လေဒဏ်ကြောင့် မခိုင့်တခိုင်သာရှိသည်။ ပျဉ်လေးငါးချပ်သာ မြေပြင်တွင်ခင်းထားပြီး တောင်ဘက်သို့ မျက်နှာမူထားသည်။

ရသေ့သည် တောင်ပေါ်တွင် အမြဲမနေဘဲ နောင်ရွှေ၊ ဝင်းစိန်၊ သာယာကုန်းသို့ သွားလိုက် ပြန်လာလိုက်ဖြင့် တစ်ခါတစ်ရံ လေးငါးရက်ကြာမှ ဘုရားကုန်းမြေပေါ် ပြန်ရောက်တတ်သည်။ စေတီ ၂ ဆူမှာလည်း သရက်ပင်ရိပ်၊ ထန်းပင်ရိပ်များ အုပ်ဆိုင်းလျက် သစ်ပင်တောချုံနွယ်ရုံများ ထူထပ် လျက်ရှိသည်။

> ဆရာတော်သည် တောင်ပေါ်စေတီသို့ ရောက်သည့်နေ့မှစ၍ ၃ ရက် အဓိဋ္ဌာန် စခန်းဝင်ရန် ဆုံးဖြတ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၂)

၁၉၈၁ ဆရာတော်သည် တောင်တော်ကိုရောက်ရှိပြီး ရက်သတ္တနှစ်ပတ်လည် လွန်မြောက်ချိန် အေဒီ ၁၉၈၁ ခု၊ ဧပြီလ (၁၃၄၃ ခု တန်ခူးလဆန်း)မှစ၍ ၃ နှစ် အဓိဋ္ဌာန်စခန်းဖွင့်ကာ တရားကျင့်ကြံ အားထုတ်လေတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၂)

၃ နှစ် မပြည့်မချင်း မည်သည့်အခြေအနေအကြောင်းဖြစ်ရပ်နှင့်မဆို ရင်ဆိုင်ကြုံကြိုက် ဖြစ်ပေါ်လာရပါသော်လည်း ဤတောင်ပေါ်မှ တစ်လက်မမျှမရွှေ့၊ တောင်တော်ပေါ်တွင် သာသနာ ပြုသွားရန်နှင့် ဘာဝနာတရားပွားများ၍ မေတ္တာဓာတ်အား ပွားများပို့လွှတ်နေမည်ဟု အဓိဋ္ဌာန်ပြု အလုပ်စခန်းဖွင့်လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၃)

နေ့စဉ် နံနက် အရုဏ်မလင်းခင် တစ်ကြိမ်၊ ညသန်းခေါင်ယံ တစ်ကြိမ်၊ ဘုရား၊ တရား၊ သံဃာဂုဏ်တော်ပွားများခြင်း၊ ကမ္မဋ္ဌာန်း ဘာဝနာတရားပွားများ ရှုမှတ်ခြင်း၊ မေတ္တာပွားများပို့လွှတ်ခြင်း၊ အလုပ်ကို အချိန်မှန်မှန် ဖိဖိစီးစီး ဖွဲ့လုံ့လကြီးစွာဖြင့် အားထုတ်လေသည်။

ဆရာတော် တရားဘာဝနာပွားနိုင်ရန် ပထမဆုံး တည်ဆောက်သော ကျောင်းကလေးမှာ လေးတိုင်စင်ဝါးကြမ်းခင်း၊ ဖက်မိုး၊ ဖက်ကာ၊ ယာယီ ကမ္မဋ္ဌာန်းကျောင်းတစ်လုံးဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၃)

> ဆရာတော်သည် (၁၃၄၂ ခုနှစ် တပေါင်းလပြည့်ကျော် ၂ ရက်နေ့) နံနက်စောစောတွင် ယခင်က မြစိမ်းတောင်ဟု အမည်ရသော သာမညတောင် ပေါ်သို့ စတင်ရောက်ရှိခဲ့ကြောင်း ၃ နှစ် အဓိဋ္ဌာန်ဝင်ခဲ့ကြောင်း ဆက်လက်၍ ၃ နှစ်တိုင်တိုင် သရက်ပင်ရင်း၌ ကျင့်ကြံအားထုတ်တော်မူခဲ့ကြောင်း ပေါက် မြောက်အောင်မြင်ခဲ့ကြောင်းသိရပါသည်။



တောင်ပေါ်မှ တောင်အောက်သို့ပင် မကြွဟု ၁၀ နှစ်တိုင်တိုင် အဓိဋ္ဌာန် ပါရမီတော် ဖြည့်ဆည်းကျင့်ကြံတော်မူခဲ့ပါသည်။ ၁၀ နှစ်ပြည့်ပြီးမှ တောင်ခြေသို့ စတင် သွားရောက်တော်မူခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ တင်အောင်သွင်၊ အမှတ်တရ သာမည၊ ဂမ္ဘီရမဂ္ဂဇင်း၊ ၂၀၀၂ ခု၊ ဇန်နဝါရီလ၊ အတွဲ၂ အမှတ် ၁၊ စာ ၅၉၊ )

အထူးကျောင်းပေါ်မှပင် ဂုဏ်တော်ပွားများခြင်း၊ ကမ္မဋ္ဌာန်းရှုပွားခြင်း၊ မေတ္တာဘာဝနာပွားပို့ခြင်း ပြုလေရာ ဂုဏ်တော်တန်ခိုးနှင့် မေတ္တာဓာတ်အရှိန်အဟုန်သည် အနောက်ဘက် ဖွဲကပင်မြေတစ်လွှား၊ မြစ်သံလွင်ကိုကျော်ဖြတ်၍ အရှေ့ဘက် ဒေါနတောင်ခြေ၊ လှိုင်းဘွဲ့၊ ကော့ကရိတ်၊ မြဝတီသို့ ထိုးဖောက် သွားခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၆)

၁၉၈၂ အေဒီ ၁၉၈၂ ခု၊ မတ်လ ၅ ရက်၊ သောကြာနေ့ (၁၃၄၃ ခုနှစ်၊ တပေါင်း လဆန်း ၁၁ ရက်နေ့)တွင် ထီးတင်လှူပွဲအောင်မြင်သည်။ အထိမ်းအမှတ် ဘုရားပွဲ တော် ကျင်းပနိုင်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၇)

၂၀၀၃ ဤကဲ့သို့ သာသနာ့အကျိုး သယ်ပိုးဆောင်ရွက်တော်မူရင်း အေဒီ ၂၀၀၃ခု၊ (၁၃၆၅ ခု၊ နတ်တော် လဆန်း ၆ ရက်) နံနက် ၅ နာရီအချိန်တွင် အဘိဓဇအဂ္ဂမဟာ သဒ္ဓမ္မဇောတိက သာမညတောင်ဆရာတော်ဘုရားကြီး ဘဒ္ဒန္တဝိနယ မဟာထေရ်သည် သက်တော် ၉၃ နှစ်၊ ဝါတော် ၆၃ ဝါ အရတွင် ဘဝနတ်ကျောင်း ရွှေပြောင်းကျောင်း ထိုင်တော် မူခဲ့ပေသည်။

(ကျမ်းကိုး၊ ၁။ ဦးစန္ဒိမာ ဓမ္မာစရိယ တည်းဖြတ်ပြီး ခွန်တိုးရှိန်၊ ခွန်သန်းမြင့်တို့ စီစဉ်ပူဇော်သော အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက သာမညတောင်ဆရာတော်၏ ဘဝဖြစ်စဉ်ကျမ်း။ ထိုကျမ်းကို ၁၉၉၃ ခု၊ နိုဝင်ဘာလတွင် ရိုက်နှိပ်ပါသည်။ တန်ဖိုး ၂၅ ကျပ်ဖြစ်ပါသည်။)

(ကျမ်းကိုး၊ ၂။ ဆရာတော်ကြီး၏ ထေရုပ္ပတ္တိကို ၁၃၅၂-ခုနှစ်၊ (၁၉၉၀) ပြည့်နှစ်တွင် အရှင်စန္ဒိမာ (သာသနာ့ဇဓမ္မာစရိယ)က 'သာမညတောင် မော်ကွန်းမှတ်တမ်း'ဟု ကမ္ပည်းထိုးပြီး ကျောက်စာအကွာရာ တင်ထားခဲ့ပါသည်။)

(ကျမ်းကိုး၊ ၃။ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၌ ရိုက်နှိပ်သော သာသနာပြုဘွဲ့ တံဆိပ်တော်နှင့် ကမ္မဋ္ဌာန်းနည်းပြဘွဲ့၊ သာသနာ့နုဂ္ဂဟ ဘွဲ့တံဆိပ်ရ ထေရုပ္ပတ္တိနှင့် အတ္ထုပ္ပတ္တိ)

(ကျမ်းကိုး၊ ၄။ တင်အောင်သွင်၊ အမှတ်တရ သာမည၊ ဂမ္ဘီရမဂ္ဂဇင်း၊ ၂၀၀၂ ခု၊ ဇန်နဝါရီလ၊ အတွဲ၂ အမှတ် ၁၊ စာ ၅၉၊)တို့တွင် အကျယ်ကြည့်ရှုစေလိုပါသည်။

မိုးညှင်းမြို့နယ်၊ နမ္မားရဟန္တာ၊ ဓာတ်တော်ကျသည့် နမ္မားဆရာတော်

# ဦးဉာဏ

အေဒီ ၁၉၁၅ - ၁၉၈၇ ( ၁၂၇၆ - ၁၃၄၈ )





၁၉၁၅ ဆရာတော်သည် မကွေးတိုင်းဒေသကြီး၊ ထီးလင်းမြို့နယ်၊ ညောင်ကန်ရွာ ဇာတိဖြစ်၏။ အေဒီ ၁၉၁၅ ခု၊ (ဖွားသက္ကရာဇ်မှာ ၁၂၇၆ ခု၊ တော်သလင်းလဆန်း ၆ ရက်) အင်္ဂါနေ့ဖြစ်၏။ ဖမည်းတော်မှာ ဦးဖိုးချစ်ဖြစ်၏။ မယ်တော်မှာ ဒေါ်သက်ကြွယ် ဖြစ်၏။

၁၉၃၄ ရဟန်းဘဝသို့ ရောက်သော ခုနှစ်မှာ အေဒီ ၁၉၃၄ ခု၊ ဇူလိုင် (၁၂၉၆ ခု ဝါဆိုလ) ဖြစ်၏၊ ဘွဲ့တော်မှာ ဦးစက္ကညာဏဖြစ်၏။

ဆရာတော်သည် ပခုက္ကူအလယ်တိုက်၊ ဆရာတော်ထံ၌ ပညာသင်ကြားခဲ့၏။ ၎င်းနောက် မန္တလေးမြို့စံကင်း ဆရာတော်ဘုရားကြီးထံ၌လည်း ပရိယတ္တိစာပေများ သင်ကြားခဲ့ပါသည်။ ဓမ္မာစရိယဘွဲ့ထူး ဆွတ်ခူးခဲ့သည်ဟူ၍ သိရှိရပါသည်။

၎င်းနောက် မိမိ၏ ဇာတိရပ်ရွာဖြစ်သော ညောင်ကန်ရွာသို့ ကြွရောက်ကာ ပဋိပတ္တိတရားတော်များကို ၆ နှစ်တိတိ ကြိုးစားအားထုတ်ခဲ့သည်ဟု သိရှိရပါသည်။

၎င်းနောက် မိုးညှင်းမြို့နယ် နမ္မားသို့ ရောက်ရှိတော်မူခဲ့ကြောင်း သိရပါသည်။ နမ္မားမြို့တွင် ဦးရိုးတော်သူရှိ၏။ ဦးရိုးဆရာတော်မှာ ဦးကေသီဖြစ်၏။ ဦးရိုးတော်၏ ခေါ်ယူမှုကြောင့် နမ္မားသို့ကြွရောက်ကာ ပဋိပတ္တိတရားများကို ဟောကြားခဲ့ကြောင်း သိရှိရပါသည်။

နမ္မားရှိ ဒကာဒကာမများက အလွန်ကြည်ညိုကြသဖြင့် သီရိမင်္ဂလာမြို့မှာ တိုက်ကျောင်းကြီးကို ဆောက်လုပ်လှူဒါန်းကြသည်ဟုဆိုပါသည်။ ဆရာတော်သည် ထိုမြို့မှာ ကျောင်းမှာပင် တိုက်အုပ်ဆရာတော်အဖြစ်ဖြင့် ပရိယတ္တိစာပေများကို သင်ကြားပို့ချခဲ့ပြီး တစ်ဖက်မှလည်း ပဋိပတ္တိလုပ်ငန်းများဖြင့် ကျင့်ကြံအားထုတ်ခဲ့ကြောင်း သိရပါသည်။

ဘာသာရေး သာသနာရေးများကို အစွမ်းကုန်ဆောင်ရွက်တော်မူရင်း ကျမ်းစာအုပ်များကိုလည်း ပြုစုခဲ့ကြောင်း သိရှိရပါသည်။ လက်လှမ်းမီသလောက် စုဆောင်းရရှိသော စာရင်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

၁။ တရားစစ်တမ်း ဆွေးနွေးခန်း၊ ၂။ နိဗ္ဗာန်ကိုသွား ဉာဏ်ရထား၊ ၃။ ဓမ္မရုံးတော် ဉာဏ်မဟော်၊ ၄။ ဓမ္မရတနာ မြတ်စကြာ၊ ၅။ နိဗ္ဗာန်ရောက်ဖွယ် လမ်းလေးသွယ်၊ ၆။ ဒေသနာပန်းခိုင်၊ ၇။ ဓာတ် (၁၈)ပါး သံပေါက်ကျမ်း၊ ၈။ ဓမ္မစကြာ၊ ၉။ အနတ္တလက္ခဏာ သံပေါက်ကျမ်း၊ ၁၀။ မင်္ဂပန်းလေးပွင့် ဖိုလ်သီးဆင့် စသည်တို့ဖြစ်ပါသည်။

၁၉၈၆ ဆရာတော်ကြီးသည် အေဒီ ၁၉၈၆ ခု၊ နိုဝင်ဘာလ ၃ ရက်၊ တနင်္လာနေ့ (၁၃၄၈ ခု၊ တန်ဆောင်မုန်းလဆန်း ၂ ရက်) သက်တော် ၇၃ နှစ်၊ ဝါတော် ၅၃ ဝါအရတွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။

## ဆံတော် ဓာတ်တော်များ ပွင့်ပေါ်ခြင်း

ထို့နောက် အမှတ်တရ ထိန်းသိမ်းပူဇော်ထားကြသော ဆရာတော်၏ အရိုးတော်များက ဓာတ်တော်များပွင့်ပေါ်လာကြောင်း သိရှိရပါသည်။ ဆံတော်ဓာတ်တော်များ အထင်အရှား ပွင့်ပေါ်လာသည့် အိမ်များလည်း နမ္မားမြို့တွင် အထင်အရှား တွေ့ရှိရကြောင်း သိရပါသည်။



ထိုအခါ မြို့နယ်သံဃာ့နာယကဆရာတော်ကြီးများ၏ အစီအစဉ်ဖြင့် အဆိုပါ ဆံတော်ဓာတ်တော်များကို အများပြည်သူ ပူဇော်နိုင်ရန် မြို့မကျောင်းသို့ ပြန်လည် ပင့်ဆောင်ကြပါသည်။ ယာယီပြတိုက်တွင် စုဝေးထားရှိ၍ အပူဇော်ခံကြပါသည်။

ဆံတော် ဓာတ်တော်များ ပွင့်ပေါ်ပုံနှင့် စပ်လျဉ်း၍ အချို့က သတိမထားမိဘဲ အချို့က သတိထားမိကြပါသည်။ ဖယောင်းတိုင်ပူဇော်ရင်း အမှတ်တမဲ့ ကြည့်မိသော အခါမှာ ဓာတ်တော်များ ပွင့်ပေါ်နေသည်ကို ဖူးမြော်ရကြောင်း သိရှိရပါသည်။

၁၉၉၅ မည်သည့်အချိန်က ပွင့်ပေါ်ကြောင်း အတိအကျ မသိရသော်လည်း ကိုးကွယ် ထားသူတစ်ဦး၏ အိမ်တွင် ၁၉၉၅ ခု၊ ဖေဖော်ဝါရီလ ၈ ရက် ည ၈နာရီ ၂၅ မိနစ်အချိန်တွင် ဖူးမြော်ရကြောင်း သိရှိရသဖြင့် နမ္မားဆရာတော်ကြီး ခန္ဓာဝန်ချ တော်မူပြီးနောက် ၈ နှစ်အကြာတွင် ဆံတော် ဓာတ်တော်များ ပွင့်ပေါ်ကြောင်း သိရှိခဲ့ရပါသည်။

**ဆရာတော်ကြီး၏ အရိုးတော်မှာ ပွင့်ပေါ်လာကြသည့် ဓာတ်တော်များ မှာ မုန်ညင်းစေ့ပမာဏရှိ၏။ ရွှေရောင် ငွေရောင် အညိုရောင်နှင့် မဟူရာရောင် များ ဖြစ်ပေါ်နေ၏။ ရောင်စုံဖြစ်၍ ကြည်ညိုဖွယ်ရာ အလွန်ကောင်းကြောင်း သိရှိရပါသည်။**

(ကျမ်းကိုး။ယင်းကျမ်း စာ ၁၆)

မျက်မြင်ကိုယ်တွေ့ ဖူးမြော်ရသူတစ်ဦး၏ မှတ်တမ်းမှာ သိသာထင်ရှား ကြည်ညိုဖွယ်ရာ ဖြစ်ပါ သည်။

ကျောင်း၏အဝင်ဝ ဝဲဘက်မှာ ဆရာတော်၏ ရုပ်တုတော် ပြတိုက်နေရာတွင် ယာယီ မဏ္ဍပ်ထိုးပြီး ဆံတော်၊ ဓာတ်တော်များကို မှန်တိုက်၌ ထည့်သွင်း၍ အပူဇော်ခံထား သည်ကို ဖူးတွေ့ရပါသည်။

စာရေးသူတို့လည်း မှန်တိုက်တွင်းရှိ ပုလင်းငယ်များထဲမှ ဓာတ်တော်၊ ဆံတော်များကို အသင့်ထားရှိသော မှန်ဘီလူးဖြင့် ကြည့်ရှုဖူးမြော်ကြပါသည်။ စာရေး သူတို့ကဲ့သို့ လာရောက် ဖူးမြော်ကြရသူများလည်း ဝင်လာမစဲ တသဲသဲရှိနေပါသည်။

နမ္မားသူနှင့် အိမ်ထောင်ကျနေသော ရွှေနေဦးရဲထွန်းက စီစဉ်ပေးသဖြင့် နမ္မားဒေသ ရပ်ကွက်လူကြီးများနှင့် သာသနာရေးဆိုင်ရာ ဂေါပကအဖွဲ့ဝင်များနှင့် စာရေးသူ တွေ့ဆုံပြီး ဆရာတော်ဦးဉာဏ၏ အရိုးတော်မှ ဆံတော်၊ ဓာတ်တော် ပွင့်ပေါ်ခြင်း ဖြစ်ရပ်များကို လေ့လာခွင့်ရခဲ့ပါသည်။

(ကျမ်းကိုး။ယင်းကျမ်း စာ ၁၄)

(ကျမ်းကိုး၊ အကျယ်သိလိုလျှင် တက္ကသိုလ် မောင်မောင်ဆွေ၊ ထူးခြားသော နမ္မား ဆရာတော်ဦးဉာဏ၊ ပါရမီမဂ္ဂဇင်း၊ ၂၀၀၁ ခု၊ နိုဝင်ဘာလ စာ ၁၄-၁၆ ကို ကြည့်ပါ။)

ပခုက္ကူခရိုင်၊ မြိုင်မြို့နယ်၊ ကွမ်းတောရွာ၊ ကွမ်းတောဆရာတော်

# အရှင်ပညာသီရိ

**အေဒီ ၁၉၁၅ – ၁၉၉၈ (၁၂၇၆ –၁၃၆၀)**





ကာလသည်ကား တောင်တန်းသာသနာပြု အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘဒ္ဒန္တဉတ္တမသာရ အမည်ရသော တောင်တန်းသာသနာပြု ပရိတ်ရေဆူ ဆရာတော်ဘုရားကြီးသည် တောင်ပေါ်မှ မြေပြန်သို့ဆင်း၍ မေတ္တာရေချမ်း ဆွတ်ဖျန်းသောကာလ တစ်ခုဖြစ်ပါသည်။

ထိုကာလတွင် ဆရာတော်ကြီးသည် မုံရွာသို့ကြွရောက်၍ တရားပွဲချီးမြှင့်ခဲ့ပါသည်။ ထိုတရားပွဲသို့ တက်ရောက်သူများထဲမှာ မြိုင်မြို့နယ်မှ မြို့နယ်ပညာရေးမှူး တစ်ဦးလည်း ပါရှိပါသည်။ ထိုမြို့နယ်ပညာရေးမှူးအား တောင်တန်းသာသနာပြုဆရာတော်ဘုရားကြီးက ပြောလိုက်သော *စကားတစ်ခွန်း*ကြောင့် ပွဲဆူသွားသည်ဟုဆိုရပါသည်။

အဘယ်ကြောင့်ဆိုသော် ဆရာတော်ကြီးက မြို့နယ်ပညာရေးမှူးအား -

**မင်းတို့ ပခုက္ကူ မြိုင်မြို့နယ်မှာ ပုဂ္ဂိုလ်ထူး ရဟန်းထူး တစ်ပါးရှိလေရဲ့ တောရဆောက်တည်နေလေရဲ့ မတွေ့တွေ့အောင်ရှာပြီးတော့ ထူးအောင် ဖူးပေတော့ ဖူးကြ ထူးတယ်ဟု မိန့်တော်မူလိုက်သောကြောင့် ဖြစ်ပါသည်။**

ထိုအခါ မြို့နယ်ပညာရေးမှူးကလည်း ချက်ချင်းပင်လျှင် မြိုင်မြို့နယ်က တောရဆောက်တည်နေသော ရဟန်းထူးမှာ မည်သည့်ရဟန်းဖြစ်ကြောင်း ချက်ချင်းသိသဖြင့် ချက်ချင်းအရှာထွက်ခဲ့ရာ အကျော်တစော အုတ်အော်ဒေးယျ ဖြစ်သွားခဲ့လေသည်။

(ကျမ်းကိုး။ ဖိုးဒေါင်းသား၊ စာ ၅၂ )

ထိုဆရာတော်မှာ အခြားမဟုတ် ကွမ်းတောဆရာတော်ကြီး ဦးပညာသီရိ ဖြစ်လေသည်။

ထိုဆရာတော်ကြီးအကြောင်း မြိုင်မြို့နယ်သာမက နယ်ကျော်၍ သတင်းစကား ဖြစ်ပွားနေသည်မှာ ကြားသိရသည်မှာ ကြာပါသည်။

**ဆရာတော်ကြီးသည် ခြေလှမ်း လှမ်းတိုင်း လှမ်းတိုင်း အတူတူ လှမ်းကြရာ တစ်လှမ်းနှစ်လှမ်း လှမ်းရုံမျှဖြင့် ဟိုးရွှေ့အဝေးကြီးသို့ ဘယ်လိုမှန်းမသိရောက်၍ရောက်၍သွားသည်ဟု ရောက်ရာအရပ်မှာ အကျော်တစောရှိပါသည်။ ၎င်းအပြင် ဆရာတော်ကြီးသည် ကျောင်းတွင် ပရိသတ်အများနှင့် တရားဟောပြောလျက်ရှိသည်ကို အများသိပြီးဖြစ်သည်။**

**ထိုအချိန် တစ်ချိန်တည်းမှာပင် မြို့ထဲမှာ ပြုလုပ်နေသော ဆွမ်းကြီးလောင်းပွဲတစ်ခုကလည်း ကြုံနေလေသည်။ ထိုဆွမ်းကြီးလောင်းပွဲတွင် ဆရာတော်ကြီးသည် တန်းစီကြွနေသော ရဟန်းတော်များ၏ ထိပ်ဆုံးတွင် တန်းစီလျှက် ကြွတော်မူသည်ကို အများပင် တွေ့မြင်ကြရသဖြင့် သတင်းစကားပြန့်နှံ့ကာ အထူးအဆန်း ဖြစ်ကြရလေသည်။**

**၎င်းအပြင် မြိုင်မြို့နယ်အတွင်း ကျေးရွာများတွင် တစ်ချိန်တည်း တစ်ပြိုင်တည်းမှာ ရွာအနှံ့ဆွမ်းခံကြွလျက်ရှိကြောင်း တွေ့မြင်ကြရသည်ဟုဆိုပါသည်။**

(ကျမ်းကိုး။ ယင်း စာ ၅၂)

၎င်းအပြင် အထူးဆန်းအဖြစ်ပြောကြသည်မှာ အုံ့ဖွယ်အတိဖြစ်ပါသည်။ ပြောလည်းပြောလောက်ပါသည်။

တောရကျောင်းအတွင်းရှိ အပင်များဖြစ်သော မန်ကျည်းပင်မှ အခေါက်များသည်လည်းကောင်း၊ ပရိတ်ရေများသည်လည်းကောင်း၊ ရောဂါပျောက်ကင်းကြောင်း တွေ့ကြုံသူ များလှသည် ဖြစ်ပါသည်။ ဆရာတော်ကြီး ပရိတ်ရွတ်တိုင်းမှာပင် မိုးများ ချက်ချင်း အုံ့ဆိုင်းကာ ချက်ချင်း ရွာလာတတ် လေသည်မှာလည်း လက်တွေ့ပင်ဖြစ်လေသည်။



ဓာတ်ပုံဆရာများကလည်း မိမိတို့သည် ဆရာတော်ကြီးထံ ခွင့်ပန်ပြီးမှ ဓာတ်ပုံရိုက်ကြကြောင်း ခွင့်မပန်ဘဲ ဓာတ်ပုံရိုက်လျှင် ပုံတစ်ပုံမှ မထင်ကြောင်း ပြောကြားကြပါသည်။

ဆရာတော်ကြီး၏ ပုံတော်ရှေ့မှာ ကပ်လှူထားသော သောက်တော်ရေခွက်များမှာလည်း မကြာခဏဆိုသလိုပင် လျှံကျတတ်ကြောင်း ဆူတက်လာကြောင်း ပြောကြားကြပါသည်။ ဤသို့ဖြင့် ဆရာတော်ကြီး၏ ထူးခြားချက်များကို ကြားသင့်သလောက် ကြားကြရပါသည်။

ဆရာတော်ကြီးသည် အသက်အရွယ်ကြီးမားသော်လည်း ဘယ်နှကြိမ်ဟောဟော တရားဟော၍မမောဟု ဆိုပါသည်။

**တရားဟောတိုင်းလည်း သောတာပန်ဖြစ်သည်အထိ ကျင့်ကြံအားထုတ်ကြရန် ဟောကြားလေ့ရှိကြောင်း သတိတရားလက်ကိုင်ထားကြရန် ငါးပါးသီလ မြဲကြရန် ဟောကြားလေ့ရှိကြောင်း သိရပါသည်။ ထိုအခါ အချို့ကလည်း ဆရာတော်ကြီးသည် ရဟန္တာဖြစ်နေသည်ဟုဆိုကြပါသည်။ ဆရာတော်ကြီးကမူကား ရဟန်းကိစ္စပြီးသည် မပြီးသည်ကို ကိုယ်တော်တိုင် မိန့်တော်မူခြင်း မရှိခဲ့ဟုသိရပါသည်။**

**သို့သော်လည်း မေးတဲ့သူကိုယ်တိုင် လာစစ်ဆေး အစစ်ဆေးခံနိုင်သည်ဟု အမိန့်တော်ရှိကြောင်း တစ်ဆင့်စကားသိရပါသည်။**

(ကျမ်းကိုး၊ ယင်း စာ ၅၂)

ဆရာတော်ကြီးသည် နှစ်ပေါင်း ၄၀ ကျော်ကြာအောင် တောရဆောက်တည် ကျင့်ကြံခဲ့ကြောင်း အံ့ဩသိရှိရပါသည်။ ဆရာတော်ကြီးသည် တောရဆောက်တည်ရာတွင် ကွမ်းတောဆရာတော်၏ ကျင့်စဉ်မှာ ပခုက္ကူအရှေ့တိုက် ဆရာတော်ကြီး၏ နည်းနာနိဿယအတိုင်း ကျင့်ကြံအားထုတ်ကြောင်း သိရှိရပါသည်။

ကွမ်းတောရွာတွင် ကျောင်းထိုင်သောကြောင့် ကွမ်းတောရွာဇာတိဖြစ်သော ဆရာတော်ကြီးအား ကွမ်းတောဆရာတော်ဟု ခေါ်ဆိုခြင်းဖြစ်ကြောင်း သိရပါသည်။

ကွမ်းတောရွာကျောင်းနှင့် မနီးမဝေးဖြစ်သော မန်ကျည်းကန်တောရသို့ အညရဝါသီတောရ မှီကြောင်း သိရပါသည်။ ထိုနေရာသည် မန်ကျည်းပင်များဖြင့် အုပ်အုပ်ဆိုင်းဆိုင်းရှိသဖြင့် ဆရာတော်ကြီးက သဘောကျနှစ်သက်ကြောင်း သိရှိရပါသည်။

ထိုသို့ တောရဆောက်တည်စဉ်ကာလတွင် ထူးခြားချက်များစွာရှိကြောင်း တစ်ဆင့်စကား သိရှိရပါသည်။

ဆရာတော်ကြီးသည် နေ့စဉ်နေ့စဉ် ယာဂုကိုသာ ဆွမ်းအဖြစ်ဘုဉ်းပေးတော်မူကြောင်း သိရှိရပါသည်။ အရုဏ်ဆွမ်းအဖြစ် ယာဂုကို သုံးဆောင်ပြီးနောက် နေ့ဆွမ်းဘုဉ်းပေးသောအခါမှာလည်း မိမိရည်မှန်းထားသောဆွမ်း၏ ငါးပုံသုံးပုံကိုသာ သုံးဆောင်လေ့ရှိကြောင်း သိရပါသည်။ ကျန်နှစ်ပုံကို တောတိရစ္ဆာန်များအား စွန့်ကြဲတော်မူကြောင်း သိရှိရပါသည်။

စွန့်ကြဲပုံမှာလည်း အလွန်ဆန်းပါသည်ဟု ဆိုရပါမည်။ မိမိကိုယ်တော်တိုင် ဆွမ်းကိစ္စပြီးသွားသောအခါ ဆရာတော်ကြီးသည် ထန်းသီးမှုတ် ကုလားတက်လေးကို ခေါက်လိုက်သည်ဟု ဆိုပါသည်။ ထိုကုလားတက်ကလေးကလည်း အရံသင့် ချိတ်ဆွဲထားသော သံပြားပေါက်ကလေးဖြစ်၏။ ထိုသို့ ခေါက်လိုက်သောအခါ အနီးအနားရှိ



ငှက်ကလေးများ၊ တောကြက်များ၊ တောငှက်များ ရောက်ရှိလာကြပါသည်။ ထိုအခါ မလှုပ်မယှက်ဘဲ အေးဆေးစွာ စားသောက်ကြသည်ဟု ဆိုပါသည်။ ၎င်းအပြင် တစ်ခါတစ်ခါလည်း ယုန်ကလေးများ၊ ချေငယ်ကလေးများ၊ သမင်ကလေးများပင် ရောက်လာတတ်ကြောင်း မျက်မြင်ကိုယ်တွေ့သမားများက ပြောဆိုကြပါသည်။ ဤသို့ထူးပါသည်။

၎င်းအပြင် ဆရာတော်ကြီးသည် မိမိကိုယ်တော်တိုင် ရေသယ်သည်၊ ရေခပ်သည်၊ ကိုယ်တော်တိုင် သက်န်းလျှော်သည်၊ စသည်အားဖြင့် သိရှိရပါသည်။ ထို့ကြောင့်လည်း ထူးသည်ဟု ဆိုရပါမည်။ ထူး၍လည်းကျော်သည်ဟု ဆိုရမည် ဖြစ်ပါသည်။

ထိုအကြောင်းတို့ကို သိရှိရသဖြင့် ကွမ်းတောဆရာတော် အရှင်ပညာသီရိ၏ မဟာထေရုပ္ပတ္တိကို လိုက်လံ၍ စုဆောင်းရပါတော့သည်။

ကွမ်းတောရွာ ဆိုသည်မှာ မြိုင်မြို့မှ ၈ မိုင်ခန့် အကွာတွင်ရှိသော ရွာတစ်ရွာ ဖြစ်ပါသည်။ မြိုင်မြို့သည် မုံရွာ မန္တလေး လမ်းမပေါ်တွင် တည်ရှိပါသည်။

ကွမ်းတောရွာတွင် သိမ်ကုန်းဘုရား ဟူ၍လည်းရှိ၏။ ဘုရားနီဘုရား ဟူ၍လည်းရှိ၏။ ရွှေဂူဘုရား ဟူ၍လည်းရှိ၏။

အဘယ်ကြောင့် ကွမ်းတောရွာဟု ခေါ်ရကြောင်း စုံစမ်းပြန်သောအခါ အင်းဝမြို့တည် နန်းတည် သတိုးမင်းဖျား လက်ထက်တော်အခါက ကွမ်းတော်ဆက်ရသော အပျိုတော် မစောရှင်ဆိုသူကို အကြောင်းပြု၍ ကွမ်းတော်ရွာဟု ခေါ်ဆိုကြောင်း သိရှိရပါသည်။ နောင်မှကွမ်းတောရွာဟု ခေါ်ဆိုသည်ဟု ဆိုကြပါသည်။

မည်သို့ပင်ဆိုစေ ကွမ်းတောရွာသည် ကွမ်းတော ဆရာတော် အရှင်ပညာသီရိကြောင့် ယခုအခါ ဟိုးဟိုးကျော် ရလေသည်။

ဆရာတော်ကြီးမှာ ပခုက္ကူခရိုင် မြိုင်မြို့နယ် ကွမ်းတောရွာ ဇာတိဖြစ်ကြောင်း သိရပါသည်။ ဖခမည်းတော်မှာ ဦးဘိုးလှိုင်ဖြစ်ကြောင်း၊ မယ်တော် ဒေါ်စောဖြစ်ကြောင်း သိရပါသည်။

၁၉၁၄ ဆရာတော်လောင်းလျာကို အေဒီ ၁၉၁၄ ခု၊ ဧပြီလ ၁၆ ရက်၊ (မြန်မာ သက္ကရာဇ် ၁၂၇၆ ခု တန်ခူးလပြည့်ကျော် ၇ ရက်) ကြာသပတေးနေ့ နံနက် ၇ နာရီတွင် ဖွားမြင်တော်မူကြောင်း သိရပါသည်။ ငယ်မည်မှာ မောင်ဖိုးဆိုးဖြစ်၏။ ဖိုးဆိုးဟုခေါ်ကြ၏။

၁၉၂၁ အေဒီ ၁၉၂၁ ခု (၁၂၈၃ ခုနှစ်) မောင်ဖိုးဆိုး အသက် ၇ နှစ် အရွယ်သို့ ရောက်သောအခါ တောင်ပေါ်ကျောင်းဆရာတော် ဦးသီလစာရထံသို့ အပ်နှံ၍ ပညာ သင်စေသည်ဟု ဆိုပါသည်။ တောင်ပေါ်ကျောင်းကို ရှစ်မျက်နှာကျောင်းဟူ၍လည်း ခေါ်ကြောင်း သိရပါသည်။

၁၉၂၇ အေဒီ ၁၉၂၇ ခု (၁၂၈၉ ခု) မောင်ဖိုးဆိုး အသက်ဆယ့်သုံးနှစ်အရွယ်တွင် မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟဖြင့် ရှင်သာမဏေပြုတော်မူကြောင်းသိရပါသည်။

မောင်ဖိုးဆိုး သာမဏေဖြစ်သောအခါ ဘွဲ့အမည်မှာ ရှင်ပညာသီရိဟူ၍ ဖြစ်လေသည်။ ထိုအခါ အသက်တော် ၁၃ နှစ် အရွယ်သို့ ရောက်ပြီဖြစ်ပါသည်။

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၆ ခု၊ အောက်တိုဘာလ၊ စာ ၃၆)

၁၉၂၉ အေဒီ ၁၉၂၉ ခု (၁၂၉၀) ခုနှစ်၊ သက်တော် ၁၄ နှစ်အရွယ်သို့ ရောက်သောအခါ ကိုရင်ကလေးသည် သိမ်ကုန်းဆရာတော် ဦးသာဂရထံတွင် ပညာသင်ကြားရကြောင်း သိရှိရပါသည်။



မြိုင်မြို့နယ် ဖောင်ကွဲရွာ သိမ်ကုန်းဆရာတော်ကြီး ဘဒ္ဒန္တသာဂရထံ ပညာသင်ကြားရန် အပ်နှံခဲ့ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၆ ခု၊ အောက်တိုဘာလ၊ စာ ၃၆)

၁၉၃၀ သိမ်ကုန်းကျောင်းမှာ မြိုင်မြို့နယ် ဖောင်ကွဲရွာတွင်ရှိ၏။ ထိုရွာတွင် ကိုရင်ကလေးသည် အသက် ၁၆ နှစ်အထိ နေခဲ့ရသည် ဖြစ်ရာ ၃ နှစ်ကြာသည်ဟု ဆိုရပါမည်။ ထိုနှစ်သည် အေဒီ ၁၉၃၀ ခု (၁၂၉၂ ခု )ခုနှစ်အထိ ဖြစ်ပါသည်။

၁၉၃၂ အရှင်ပညာသီရိသည် အေဒီ ၁၉၃၂ ခု (၁၂၉၃ )ခုနှစ်၌ မန္တလေးသို့ ပညာဆည်းပူးရန် ထွက်ခွာခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၆ ခု၊ အောက်တိုဘာလ၊ စာ ၃၆)

ထိုသို့ ၃ နှစ်ကြာမျှ ပညာသင်ပြီး ပြန်သောအခါ မန္တလေးသို့တက်၍ ပညာသင်ပြန်သည်။ ထိုအခါ မစိုးရိမ်တိုက် ဘဒ္ဒန္တကောသလ္လာဘိဝံသ ထံတော်တွင် ပညာသင်ကြားရသည်ဟု သိရပါသည်။ ၎င်းအပြင် မန္တလေးမြို့ ရေပန်းတိုက်တွင်လည်း ပညာသင်ကြားခဲ့သေးကြောင်းသိရပါသည်။

မစိုးရိမ်တိုက်တွင် အဘိဓာန်၊ အလင်္ကာဆန်း၊ မာတိကာ၊ ဓာတုကထာ၊ ယမိုက်ပဋ္ဌာန်းတို့ကို ဆည်းပူးသင်ကြားခဲ့ကြောင်း သိရပါသည်။ ရေပန်းတိုက်တွင် ပါဠိအဋ္ဌကထာတို့ကို ကျမ်းကြီးပေါက်အောင် သင်ကြားခဲ့ကြောင်း သိရပါသည်။

၁၉၃၅ သက်တော် ၂၀ အရွယ်၊ အေဒီ ၁၉၃၅ ခု၊ မတ်လ ၁၃ ရက်၊ (သက္ကရာဇ် ၁၂၉၆ ခု တပေါင်းလဆန်း ၁၀ ရက်နေ့)တွင် မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်ရှိခဲ့သည်ဟု သိရပါသည်။ ကွမ်းတောရွာ ရှစ်မျက်နှာတောင်ကျောင်း ခဏ္ဍသိမ်တော်တွင် ဆရာတော်ကြီးဘဒ္ဒန္တ ကဝိန္ဒာစာရ (လက်ယက်မရွာ စပ္ပာယ်ရုံမြောက်ကျောင်း)ကို ဥပဇ္ဈာယ်ပြုကာ ရဟန်းဘဝသို့ ရောက်ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၆)

ပထမဝါနှင့် ဒုတိယဝါ နှစ်ဝါစလုံးတွင် စဉ့်ကူးမြို့ ဦးဇိနကျောင်းမှာ ပညာသင်ခဲ့ကြောင်း သိရပါသည်။

၁၉၃၇ ၎င်းနောက် ပခုက္ကူမြို့သို့ သွားရောက်၍ ပညာဆည်းပူးကြောင်း သိရပါသည်။ ပခုက္ကူသံယာ့တက္ကသိုလ် မဟာဝိဇယာရာမကျောင်းတွင်ပညာသင်ခဲ့ကြောင်းသိရပါသည်။

ထိုနှစ်သည် အေဒီ ၁၉၃၇ ခု (၁၂၉၈ ခုနှစ်)ဖြစ်သည်။

ထိုစဉ်ကာလတွင် တရားအားထုတ်ရာတွင် ပုတီးစိပ်ကာ ပွားများအားထုတ်ကြောင်းသိရပါသည်။ နေ့အခါတွင် စာအံ၏။ ညအခါတွင် ဓာတ်ခြောက်ပါး ပုတီးစိပ်ကို စိပ်၏ဟု သိရပါသည်။ ထိုကာလသည် ဒုတိယကမ္ဘာစစ်ကာလဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၆)

ထိုအချိန်တွင် ဒုတိယကမ္ဘာစစ် မီးတောက်လောင်ခဲ့လေသည်။ ထိုအခါ ခေတ်ပျက်ကာလဖြစ်သဖြင့် အခြားသော စာသင်သားများသည် ဇာတိရပ်ရွာသို့ ပြန်လာကြသော်လည်း အရှင်ပညာသီရိသည် မပြန်လာဘဲ စာကျက်နေခဲ့သည်ဟု သိရပါသည်။

၎င်းနောက် စစ်ကြီးပြီးသောအခါ ခမည်းတော် ဦးဖိုးလှိုင်သည် သားရဟန်းအား ရှာတော်ပုံဖွင့်ခဲ့ရာ ပခုက္ကူတွင် တွေ့ရှိရသဖြင့် ကွမ်းတောရွာသို့ ပြန်လည်ပင့်ဆောင်ခဲ့လေသည်ဟု ဆိုပါသည်။

၎င်းနောက် ရဟန်းတော်ကလေး အရှင်ပညာသီရိသည် ရေစကြိုမြို့ အောက်အိုရွာအနောက်ကျောင်းဆရာတော် ဦးဉာဏုတ္တရထံတော်တွင် စာသင်ခဲ့သေးသည်ဟု သိရပါသည်။ ထိုရေစကြိုမြို့တွင် ၄ နှစ် ၄ ဝါ ပညာသင်ခဲ့သည်ဟု သိရပါသည်။



ထို့နောက်မှသာ မိမိ၏ ဇာတိရပ်ရွာဖြစ်သော ကွမ်းတောရွာသို့ ပြန်လည်ကြွတော်မူခဲ့ကြောင်း သိရပါသည်။ ထိုအချိန်တွင် သက်တော် ၃၃၊ သိက္ခာတော် ၁၃ ဝါ ရှိပြီဟု ဆိုပါသည်။

၁၉၅၁ ထို့နောက် သက်တော် ၃၇ နှစ်၊ အရွယ်တော်သို့ ရောက်သောအခါမှာ အထက်က သိရှိခဲ့ရသည့်အတိုင်း မန်ကျည်းကန်တောရသို့ ပြောင်းရွှေ့ကာ အရညဝါသီ တောရမှီကျောင်း သိရှိရပါသည်။

ထိုနှစ်သည် အေဒီ ၁၉၅၁ ခု ၊ (၁၃၁၃ ခုနှစ်)ဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၆)

၁၉၅၄ ခမည်းတော် ဦးဖိုးလှိုင်သည် ဆရာတော် သက်တော် ၄၀ အရွယ်တွင် ကွယ်လွန်သွားသည်ဟု သိရှိရပါသည်။

ထိုနှစ်သည် အေဒီ ၁၉၅၄ ခု ၊ (၁၃၁၆ ခုနှစ်) ဖြစ်ပါသည်။

၁၉၆၆ မယ်တော်ကြီးမှာမူကား ဆရာတော်ကြီး သက်တော် ၅၂ နှစ်အရွယ်ရောက်သည်အထိ သက်ရှည်ကျန်းမာလျက်ရှိ၏။ ၎င်းနောက် ကျန်းမာရေး ချို့ယွင်းလာသည်ဟု သိရပါသည်။

ထိုနှစ်သည် အေဒီ ၁၉၆၆ ခု၊ (၁၃၂၈ ခုနှစ်)ဖြစ်ပါသည်။

တောရဆောက်တည်သော ကျောင်းကလေးမှာ ခုတင်တစ်လုံးဆံ့ရုံလောက်သာ ရှိသော ထန်းရွက်မိုး တဲကျောင်းအိုကလေး ဖြစ်လေသည်။

**ဒန်းစင်ပေါ်မှာ**

ထိုကျောင်းလေးထဲတွင် ခုတင်တစ်လုံးဆံ့နိုင်သော်လည်း ခုတင်တစ်လုံးမျှ မထားပါ။ လျှော်ပက်လက်ကုလားထိုင်အိုတစ်လုံးနှင့် ခွေးခြေတစ်လုံးသာ ထားရှိသည်ဟု သိရပါသည်။

ယင်းကျောင်းငယ်ကလေးအတွင်း၌ မိုးရွာမှသာ ခိုအောင်းလေ့ရှိသည်။ မန်ကျည်းပင်ကြီးများအောက်တွင်မူ ထန်းပလက်ပြားများကို ကြမ်းခင်းပြုလုပ်၍ သစ်ပင်နွယ်တို့ဖြင့် ခြေရင်းခေါင်းရင်း ပုခက်အတွင်းရစ်သိုင်းပြီး မန်ကျည်းပင်တိုင်ကို ချိတ်ဆွဲထားသော ဒန်းစင်ဖြင့် သီတင်းသုံး တရားရှုမှတ်တော်မူလေ့ရှိပါသည်။

ဒန်းစင်၏ အမြင့်မှာ မြေပြင်မှ (၃)ပေခန့်မြင့်၍ တစ်ပါးစာ လျောင်းစက်၍ ရရုံသာဖြစ်သည်။ ယင်းသို့ အားထုတ်ရခြင်းမှာ တရားအားထုတ်စဉ် မတော်တဆ ငိုက်မျဉ်းခဲ့သော် နိုးလွယ်အောင်ဟူ၏။

ဆရာတော်၏ တစ်နေ့တာ ကာလများကို လေ့လာသောအခါ အလွန့်အလွန် စိတ်ဝင်စားဖွယ် ကြည်ညိုဖွယ် အံ့ဩဖွယ်တို့ကို တွေ့ရှိရပါသည်။

ဆရာတော်ကြီးသည် နေ့စဉ် တောသို့မကြွမီ အရုဏ်ယာဂုဆွမ်းကိုသာ ဘုဉ်းပေးတော်မူပါသည်။

အရုဏ်ဆွမ်း ဘုဉ်းပေးပြီးနောက် နံနက် ၆ နာရီလောက်တွင် ဆွမ်းသပိတ် လွယ်ကာ နှစ်ထပ်သက်န်းကြီးကို ရစ်သိုင်းလျက် ထီးတစ်လက် အဖော်ပြုပြီး တစ်တောဝင် တစ်ကုန်းတက်၍ တစ်တောင်ကျော်ကာ နေ့စဉ် တောသို့ ထွက်တော်မူလေ့ရှိသည်။

တောကျောင်းသို့ ရောက်လျှင်ရောက်ချင်း တရားနှလုံးသွင်း၍ ဆယ်နာရီ အချိန်လောက်တွင် ကျောင်းမှအသင့် ထည့်ယူလာသည့် ဆွမ်းကို ဘုဉ်းပေးတော်မူပါသည်။



ဆွမ်း၏ ငါးဖို့သုံးဖို့မျှလောက်သာ ဘုဉ်းပေးတော်မူ၍ ကျန်နှစ်ဖို့မျှကို တိရစ္ဆာန်လေးများအား ဒါနပြုတော်မူသည်။

ဆွမ်းဘုဉ်းပေးပြီးသောအခါတွင် အရန်သင့် ပြုလုပ်ချိတ်ဆွဲထားသော သံပြားပေါက်ကလေးနှင့် ထန်းသီးမှုတ် ကုလားတက်(တုံး)လေး ခေါက်လိုက်သောအခါ တောကြက် တောငှက်ကလေးများ တွန်မြူးပြီး အစုလိုက်အပြုံလိုက် အလျှိုလျှို ရောက်ရှိလာကြသည်။

တိရစ္ဆာန်လေးများမှာ သူ့နေရာနှင့်သူ၊ သူ့အုပ်စုနှင့်သူ ရန်မရှာကြဘဲ ချစ်ကြည်စွာ စားသောက်ကြသည်ကို ကြုံကြိုက်သူတိုင်း မြင်တွေ့ကြရသည်။ ရှေးယခင်က ချေ၊ သမင်နှင့် ယုန်လေးများပါ လာရောက် စားသောက်လေ့ရှိကြသည်။

တိရစ္ဆာန်လေးများကို အစာကျွေးပြီးသောအခါ သုံးနေရာခွဲ၍ ရေတိုက်ကျွေးတော်မူသည်။

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဋ္ဌမဂ္ဂဇင်း။ ၂၀၀၆ ခု၊ အောက်တိုဘာလ၊ စာ ၃၇)

ဆရာတော်ကြီး၏ကျောင်းတော်သို့ ရောက်ဖူးသူတစ်ဦးက ဆောင်ပုဒ်များကို ကူးယူလာခဲ့သည်ဟု ဆိုပါသည်။ ဆောင်ပုဒ်များမှာ ဆရာတော်ကြီး၏စိတ်ကြိုက် ဆောင်ပုဒ်များဖြစ်ကြောင်း၊ ဆောင်ပုဒ် ၉ ခု ရှိကြောင်း သိရှိရပါသည်။ ဆရာတော်ကြီး၏ တစ်ဘဝ သာသနာတော်ခရီးစဉ်တွင် အရေးကြီးသော စာများဖြစ်သည်ဟု ဆိုကြပါသည်။ ဖတ်ကြည့်ပါ။

**စိတ်ကြိုက်ဆောင်ပုဒ်များ**

၁။ ဘဝပြဿနာဆိုတာ သင်၏ စွမ်းရည်ကို တိုးတဲ့ သင်္ချာပုစ္ဆာ။
၂။ ရှောင်ရဲခြင်းသည် ဘဝအတွက် ပျော်ရွှင်မှု။
၃။ မနက်ဖြန်ကို မပူနဲ့၊ ယနေ့ ပြဿနာကို အရင်ရှင်းပါ။
၄။ လိုချင်တာထက် လိုအပ်မှုကို ဦးစားပေး။
၅။ အမျက်ဒေါသသည် ဖြောင့်မတ်ခြင်းတရားကို မပြုစုတတ်။
၆။ အသိတရားကို ငွေကြေးဖြင့် တန်ဖိုးဖြတ်၍ မရပါ။
၇။ ညစ်ပတ်သော သင်၏ စိတ်ဓာတ်များကို ကျွန်ုပ်၏ ဖိနပ်ချွတ်မှာ ထားခဲ့ပါ။
၈။ ဆက်ဆံမှု ရှည်ချင်ရင် ပုံမှန်အတိုင်း ဆက်ဆံပါ။
၉။ နှုတ်အပြောထက် စိတ်သဘောထား ပိုကောင်းပါ။

(ကျမ်းကိုး၊ ၁၉၉၅ ခု ဒီဇင်ဘာလ ဂမ္ဘီရ မဂ္ဂဇင်း အမှတ် ၅။ တင်စိုးသိန်း၏ မခေါ်ဘဲနဲ့လာပြီး မနှင်ဘဲနဲ့ ပြန်တော့မယ့် ဆရာတော်ကြီးတစ်ပါး၊ စာ ၇၂)

ဆရာတော်ကြီး၏ ဆုံးမစကားတစ်ခုမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

**သမ္မုဒ္ဒေရွတ်ကြပါ**

ထွေထွေထူးထူး ဆုံးမစရာ မရှိပါဘူး၊ သွားတဲ့လာတဲ့အခါမှာ သမ္မုဒ္ဒေကို မမေ့နဲ့၊ ရွတ်ဖတ်ပြီးမှသွားဟု အမိန့်ချမှတ်ပါသည်။

(ကျမ်းကိုး၊ ၁၉၉၅ ခု ဒီဇင်ဘာလ ဂမ္ဘီရမဂ္ဂဇင်း အမှတ် ၅ လာ တင်စိုးသိန်း၏ မခေါ်ဘဲနဲ့ လာပြီး မနှင်ဘဲနဲ့ ပြန်တော့မယ် ဆရာတော်ကြီးတစ်ပါး၊ စာ ၇၃)

ဆရာတော်ကြီးကို ဖူးမြော်စဉ်က မှတ်တမ်းတစ်ခုကို ဖတ်ရရာ အောက်ပါအတိုင်း တွေ့ရှိရပါသည်။

ခေတ္တဆုံကြတဲ့ သာလယ် ဇရပ်ကြီးပါကွာဟု မိန့်ကြားခဲ့ပါသည်။ ထိုသို့



ပြောနေခိုက်တွင် အနီးကပ် ပြုစုစောင့်ရှောက်နေသော ကပ္ပိယကြီး ဦးလုံမှ ကျွန်တော့် အနားကပ်ပြီး ခရိုင်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့ ဥက္ကဋ္ဌကြီး ရောက်တုန်း ဆရာတော်ကြီးကို လျှောက်ထားခဲ့ပါဦး။

ဆရာတော်ကြီးက သူ့ခန္ဓာဝန်ချဖို့ အုတ်ဂူပြာသဒ်ဆောက်ခိုင်းနေတယ်။ သူက ဆောက်ခိုင်းတော့ ကျွန်တော်တို့က ဆွဲခိုင်းလို့ ဆွဲပြထားပြီးပါပြီ။

အုတ်ဂူပြာသဒ် ပုံစံတွေတောင် ငါးသောင်း အလှူဒါယကာပေါ်သွားပြီ၊ ခန္ဓာဝန်ချမယ် တကဲကဲ ပြောနေတယ်။

မျက်ရည်တလည်လည်နှင့် ဦးလုံမှ ကျွန်တော်တို့အား ပြောကြားခဲ့ပါ၏။ ကျွန်တော်နှင့် ကျွန်တော် ဇနီးတို့မှာ တအံ့တဩနှင့် -

ဆရာတော်ဘုရားကြီးဘုရား၊ ခန္ဓာဝန်မချပါနဲ့ဦး ဘုရား၊ ဆရာတော်ကြီး သက်တော် ၈၃ နှစ် ဆိုတာ ငယ်ပါသေးတယ်ဘုရား၊

စစ်ကိုင်းက ရွှေဟင်္သာကျောင်းတိုက် ဆရာတော်ကြီးက သက်တော် ၁၀၃ နှစ်အထိ နေခဲ့တာ ပဲဘုရား၊

အဲဒါကြောင့် ဆရာတော်ကြီးလည်း နောင်နှစ် ၂၀ တောင် နေလို့ ရပါသေး တယ်ဘုရား။ ခန္ဓာဝန်မချပါနဲ့ဦးဘုရားဟု လျှောက်ထားခဲ့သည်။

သို့သော် ဆရာတော်ကြီးမှ ဘာမှပြန်မပြော။ ဆရာတော်ဘုရားကြီးက သက်တမ်းအရ နေရသေးရင်ပေါ့လေဟု ပြန်လည်မိန့်ကြား၍ ဆိတ်ဆိတ်နေ၏။

(ကျမ်းကိုး၊ ၁၉၉၅ ခု ဒီဇင်ဘာလ ဂမ္ဘီရ မဂ္ဂဇင်း အမှတ် ၅ လာ တင်စိုးသိန်း၏ မခေါ်ဘဲနဲ့ လာပြီး မနှင်ဘဲနဲ့ ပြန်တော့မယ် ဆရာတော်ကြီးတစ်ပါး၊ စာ ၇၄ - ၇၅)

ကွမ်းတော ဆရာတော်ကြီးသည် ပျံလွန်တော်မမူမီ ရက်ပေါင်း ၃၀ လောက်ကတည်းက စ၍ ကျောင်းဝင်းအတွင်း ထူးခြားချက်များရှိသည်ဟု ဆိုပါသည်။

ကျောင်း၏ ခေါင်းရင်းတွင် စိုစိုစိမ်းစိမ်းရှိသော မန်ကျည်းပင်ကြီးသည် အကြောင်းထူးမရှိဘဲ အရွက်များ ခြောက်သွေ့ကုန်၏။ ကြွေကျကုန်၏ဟု ဆိုကြပါသည်။

**သေရင် ဘာမှ မလုပ်နဲ့ဟု မှာခဲ့**

ထိုအခါ ဆရာတော်ကြီးသည် မိမိ၏တပည့်များအား မှာစရာရှိသည်များကို မှာကြားတော်မူခဲ့လေ သည်။

**"တို့များ ပျံလွန်တော်မူခါနီးပြီး ကိုးကွယ်ထားချင်လျှင် ဘေးကကြည့်လို့ မြင်ရတဲ့ဂူတစ်လုံးဆောက်ကြ။ ဘုန်းကြီးသေရင် ဘာမှမလုပ်မနေနဲ့။ တစ်နေ့ တစ်ရက်လောက် အပူဇော်ခံပြီးရင် ဂူထဲသွားထည့်ကြဟု မိန့်တော်မူခဲ့သည်။ ဤသို့ဖြင့် ၁၃၆၀ ပြည့်နှစ် တပေါင်းလသို့ ရောက်လာ၏။ ဆရာတော်ကြီးသည် သက်တော် ၈၅ နှစ်၊ ရှိခဲ့ပြီဖြစ်သည်။ ဝါတော်လည်း ၆၅ ဝါ ရှိခဲ့ပြီဖြစ်သည်။**

၁၉၉၈ ကွမ်းတောရွာတောရ ဆရာတော်ကြီးသည် အေဒီ ၁၉၉၈ (၁၃၆၀ ပြည့်နှစ် တပေါင်းလဆန်း ၁၁ ရက်) သောကြာနေ့ နေ့လယ် ၁ နာရီ ၃၅ မိနစ်အချိန်တွင် ခန္ဓာဝန်ချတော်မူကြောင်း သိရပါသည်။

ကွမ်းတောတောရ ဆရာတော်ဘုရားကြီးနှင့်စပ်လျဉ်း၍ အံ့ဩဖွယ် ကြည်ညိုဖွယ်ရာများကို သိရှိရပါသည်။ ၎င်းတို့မှာ မှတ်သားမိသမျှ အောက်ပါအတိုင်းဖြစ်ပါသည်။



**အံ့သြကြည်ညိုဖွယ်ရာများ**

၁။ ဆရာတော်ကြီး ခြေလှမ်း နှစ်လှမ်း သုံးလှမ်း လှမ်းလိုက်သည်နှင့် ဘယ်လိုလုပ်ပြီး အဝေးကို ရောက်သွားမှန်းမသိ။

၂။ ဆရာတော်ကြီးကို တောရကျောင်း၌ ညှော့ပရိသတ်များအား လက်ခံစကားပြောနေသည်ကိုတွေ့ရပြီး ရွာကျောင်းဆွမ်းကြီးလောင်းပွဲတွင် ထိပ်ဆုံးမှ ကြွနေသော ဆရာတော်ကိုလည်း ဖူးတွေ့ရခြင်း။

၃။ မြိုင်မြို့နယ် ကျေးရွာများသို့ ဆွမ်းခံကြွသည်ကို ဖူးမြင်ကြရခြင်း။

၄။ ဆရာတော်၏ ဓာတ်ပုံကို မီးမလောင်ခြင်း။

၅။ ဆရာတော်၏ ပုံတော်ရှေ့ရှိ သောက်တော်ရေဖလားမှ ရေပူဖောင်းလေးများ ထပြီး အောက်သို့ လျှံကျခြင်း။

**၆။ ဆရာတော်၏ ပုံတော်ရှေ့တွင်ထားသော ပလတ်စတစ်အိတ်အတွင်း၌ ပဲနောက်စေ့ခန့် ရွှေရောင်ဓာတ်တော်အလုံးကလေးများတွေ့ရခြင်း။**

၇။ ဆရာတော်ကြီးထံ ခွင့်ပန်ခြင်းမပြုဘဲ အသံဖမ်းယူခြင်း၊ ဓာတ်ပုံရိုက်ကူးခြင်း၊ ဗီဒီယိုတိတ်ခွေ ရိုက်ကူးခြင်း။

၈။ ပရိတ်ရွတ်ခြင်းကိစ္စများပြီး၍ ဆရာတော်ပြန်ကြွလျှင် မိုးများအုံ့မှိုင်းလာ၍ရွာသွန်းခြင်း။

၉။ ဆရာတော်ကြီးကို နှုတ်ဖြင့်မလျှောက်ဘဲ စိတ်အကြံဖြင့် လျှောက်တင်သည်များကို ဆရာတော်ကြီး သိရှိတော်မူခြင်း။

၁၀။ မကျည်းကန်တောရမှ မန်ကျည်းသား၊ မန်ကျည်းခေါက်တို့ဖြင့် ရောဂါပျောက်ကင်းကြခြင်း။

**၁၁။ ဆရာတော်ကြီး ဆံတော်ချလျှင် ဆံပင်ကိုယူ၍ ပုလင်းသေးသေးများနှင့် ထည့်ကာ ပူဇော်ကြရာတွင် ဆံတော်မှဓာတ်တော်ဖြစ်နေခြင်း။**

**၁၂။ ဆရာတော်ကြီး၏ ပရိတ်မေတ္တာရေကို ဆောင်ယူ ကိုးကွယ်ကြသူများ၏ ပုလင်းထဲ၌ ပဲနောက်စေ့အရွယ်၊ မန်ကျည်းစေ့ခန့်အရွယ် ရွှေရောင်ဓာတ်တော် အလုံးကလေးများ ဖြစ်ပေါ်ခြင်းတို့ ဖြစ်လေသည်။**

(ကျမ်းကိုး၊ တင်အောင်သွင်၊ သူရဿမဂ္ဂဇင်း၊ ၂၀၀၆ ခု၊ အောက်တိုဘာလ၊ စာ ၃၈ )

ဤသို့သော ထူးထူးထွေထွေ အံ့သြမကုန်နိုင်လောက်အောင် လေ့လာတွေ့ရှိရပါသည်။

(ကျမ်းကိုး၊ ထိုအချက်အလက်များကို ၂၀၀၂ခုနှစ်၊ မတ်လ နက္ခတ်ဗေဒင်မဂ္ဂဇင်းလာ အရှင်ပညာဓိကသီရိ ရေးသားအပ်သော မြိုင်မြို့နယ် ကွမ်းတောရ ဆရာတော်ဘုရား ဆောင်းပါး အရလည်းကောင်း၊ ဂမ္ဘီရ မဂ္ဂဇင်းလာ ဖိုးခေါင်းသား၏ ကွမ်းတောဆရာတော် အရှင်ပညာသီရိဆောင်းပါး စာမျက်နှာ ၅၀-၅၂ အရ လည်းကောင်း၊ တင်အောင်သွင်၊ သူရဿမဂ္ဂဇင်း၊ ၂၀၀၆ ခု၊ အောက်တိုဘာလ၊ စာ ၃၅-၃၈ အရလည်းကောင်း၊ ၁၉၉၅ ခု ဒီဇင်ဘာလ ဂမ္ဘီရ မဂ္ဂဇင်း အမှတ် ၅ လာ တင်စိုးသိန်း၏ မခေါ်ဘဲနဲ့လာပြီး မနှင်ဘဲနဲ့ ပြန်တော့မယ့် ဆရာတော်ကြီးတစ်ပါး၊ စာ ၇၂ - ၇၅ အရ လည်းကောင်း သိရှိရပါသည်။ အကျယ်သိလိုသူများ ရှာဖွေ ဖတ်ရှုကြပါ။)

မာတိကာကျသော ပင်ကုက္ကိုဆရာတော်

# ဦးပဏ္ဍာဝံသ

အေဒီ ၁၉၁၅ - (၁၂၇၆ - )





ပင်ကုက္ကိုဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကို အကျယ်တဝင့် မသိရှိရပါ။ ကျေးဇူးရှင် ပင်ကုက္ကို ဆရာတော်ဘုရားကြီး ဦးပဏ္ဍဝံသ ရေးသားစီရင်အပ်သော ဝိပဿနာ ကမ္မဋ္ဌာန်း အလင်းပြ ရှစ်လုံးဖွဲ့ ကဗျာများဟူသော စာကလေးကို စာမျက်နှာ ၂၄ မျက်နှာရှိ ၃၂ ချိုး၊ စာအုပ်ငယ်ကလေးအရ သိရှိရပါသည်။ ထိုစာအုပ်ငယ်ကလေးတွင် ဆရာတော်ကြီး၏ ဓာတ်ပုံနှင့်တကွ ထေရုပ္ပတ္တိအကျဉ်းကိုသာ သိခွင့်ရခဲ့ပါသည်။ ဆရာတော်ကြီး ခန္ဓာဝန်ချတော်မူသောအခါ ဓာတ်တော်များ ပွင့်ပေါ်တော်မူခဲ့သဖြင့် ထူးခြားစွာ ကြည်ညိုရပါသည်။

၁၉၁၅ ဆရာတော်ကြီးသည် စစ်ကိုင်းမြို့နယ် တောင်ရင်းရွာနေ ဦးဘိုးရင် - ဒေါ်ငွေဇင်တို့၏ သားဦးရတနာဖြစ်တော်မူသည်။ (၁၂၇၆ ခုနှစ် နှောင်းတန်ခူးလဆန်း (၄) ရက်) ကြာသပတေးနေ့ နံနက် ၁၀ နာရီ (မြန်မာနာရီ ၁၁ - ချက် ၂ နာရီ ပဒ်ပြည့် ၁၂ မိဇနာ ၃၃ ပြန် ၈-ခရာ) (၁၉၁၅ - ခု မတ်လ ၁၈ ရက်)တွင် ဖွားမြင်တော်မူသည်။

ငယ်မည်မှာ မောင်ဘချစ် ဖြစ်သည်။ ငယ်စဉ်ပင် ထူးခြားသော လက္ခဏာတော်များရှိ၍ ရဟန်းပညာရှိ လူပညာရှိတို့က ထူးခြားသော ရဟန်းပညာရှိ ဖြစ်မည်ဟု ဟောခဲ့ကြပေသည်။

၁၉၂၇ အေဒီ ၁၉၂၇ ခု (၁၂၈၈ ခု ) ၁၂ နှစ်သား အရွယ်တွင် သာမဏေဘောင်သို့ဝင်တော်မူသည်။ မယ်ဇလီချောင်းရွာ ဆရာတော် ဦးဇာဂရထံတွင် ပညာသင်ယူတော်မူခဲ့သည်။

'ပင်ကုက္ကို ညောင်တွဲလို့ အောင်ပွဲရတို့သခင် ဘုန်းတောက်မည်အစဉ်' ဟူသော တဘောင်တော်သည် ဆရာတော် ပင်ကုက္ကိုကျောင်းသို့ ကြွရောက် သီတင်းမသုံးမီကပင် ပေါ်ပေါက်ခဲ့ပါသည်။ ထိုတဘောင်အတိုင်းပင် ကျောင်းအရံစည်းရိုးကို ကုက္ကိုပင်ကြီး အသီးသီးတို့၏ ကိုင်းပေါ် ခွဆုံပေါ်တို့တွင် ပေါက်လျက်ရှိသည့် ညောင်ပင်တို့သည် အရွယ်ကြီးပြင်းမလာခဲ့ပေ။ အရွက်အလက် မဝေဆာဘဲ အပင်ပေါက်အရွယ်အတိုင်း ယနေ့ထိ ရှိနေသည်မှာ အံ့တစ်ပါးပင် ဖြစ်ပါတော့သည်။

(ကျမ်းကိုး၊ ယခုတစ်ဖန် ခန္ဓာဝန်ချတော်မူသော ကျေးဇူးရှင် ပင်ကုက္ကို ဆရာတော် ဘုရားကြီး ဦးပဏ္ဍဝံသနှင့် တပည့် ကျားကူးဆရာတော် ဦးကောဝိဒ အရှင်သူမြတ်၏ မူရင်းအတိုင်း ပင်ကုက္ကိုဆရာတော် ဦးကောဏ္ဍည ရေးသားစီရင်အပ်သော ပင်ကုက္ကို ဓမ္မရိပ်သာ တရားအားထုတ်ပုံအစဉ်နှင့် ဝိပဿနာကမ္မဋ္ဌာန်း အလင်းပြ ရှစ်လုံးဘွဲ့ကဗျာများဟူသော ဓမ္မဒါနစာအုပ်ကလေးအရ သိခွင့်ရသမျှသာ မှတ်တမ်းတင်အပ်ပါသည်။ ဆက်လက်ရှာဖွေ လေ့လာဆဲ ဖြစ်ပါသည်။)

မှတ်ချက်။ ဤတွင် ပင်ကုက္ကို ညောင်တွဲလို့အောင်ပွဲရ သခင်ဟူသော စကားအရ ပင်ကုက္ကို ဆရာတော်ဘုရားကြီးနှင့် အတူတွဲ၍ ရိုက်ကူးထားသော ဓာတ်ပုံတစ်ပုံကို တွေ့မြင်ဖူးပါသည်။ ထိုဓာတ်ပုံတွင် မိတ္ထီလာခရိုင် မလှိုင်မြို့နယ်၊ စေတော်ဝင် သာသနာပြုစခန်းကြီး၏ ဦးစီးနာယက ပဓာန ဆရာတော်ကြီးဖြစ်သော အဂ္ဂမဟာ သဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဉာဏိက အရှင်ဇေယျသိဒ္ဓိဓမ္မဉာဏိက ဆရာတော်ဘုရားကြီးနှင့်အတူ ယှဉ်တွဲလျက် ရိုက်ထားပါသည်။

ဓာတ်တော်များ ယနေ့တိုင် ပူးမြော်နိုင်သော ရဟန္တာအရှင်မြတ်ကြီး

မန္တလေးတိုင်းဒေသကြီး၊ တံတားဦးမြို့နယ်၊ မြေငူရွာ၊ သရက်တော တောရကျောင်း

# မြေငူဆရာတော် ဦးကုသလ

အေဒီ ၁၉၁၅ – ၁၉၈၃ ( ၁၂၇၇ – ၁၃၄၅ )





လွန်ခဲ့သော ၁၉၈၃ ခုနှစ် (၁၃၄၅ )ကာလက မန္တလေးတိုင်းဒေသကြီး တံတားဦးမြို့နယ်တွင် ရဟန္တာကြီး တစ်ပါး ပရိနိဗ္ဗာန်ပြုတော်မူကြောင်း မန္တလေးတစ်ခွင်မှာ ဟိုးဟိုးကျော်၍ သတင်းသည် ရန်ကုန်အထိ ရောက်လာပါသည်။

မြေငူဆရာတော်ဘုရားကြီး ဦးကုသလ ခန္ဓာဝန်ချတော်မူသောအခါ မီးသဂြိုဟ်ရာ ဓာတ်တော်များ ဖူးတွေ့ကြရလေသည်။ ဓာတ်တော်မှန်းသိကြသဖြင့် ပင့်ဆောင်၍ နားလည်သူများကို ပြသောအခါမှာ ဆရာတော်ကြီးများက ဓာတ်တော်ဖြစ်ကြောင်း မိန့်တော်မူသဖြင့် မြေငူဆရာတော်ဘုရားကြီးသည် ရဟန္တာ အရှင်မြတ်ကြီးဖြစ်ကြောင်း သိကြရလေတော့သည်။ အလားတူဓာတ်တော်များကို ဝမ်းတော်ပြည့် ဓာတ်တော်တိုက်တွင် ယနေ့တိုင် ဖူးမြော်နိုင်ပါသည်။

(မှတ်ချက်။ ကျမ်းကိုး။ မန္တလေးမြို့၊ နဝီမြန်မာ ဟိုတယ်ကြီးကို ဦးစီးအုပ်ချုပ်သော လူမှုရေး ထူးချွန်သည့် ဦးအောင်ခိုင်၏ ကောင်းမှုဖြင့် မြေငူ ဆရာတော်ဘုရားကြီး၏ ဓာတ်ပုံတော်နှင့် တကွ၊ ဓာတ်တော်များကိုပါ ၁၂ လက်မအရွယ်ရှိ ဓာတ်ပုံကြီးနှင့် တတွ ဖူးခွင့်ရခဲ့ပါသည်။ အဆိုပါ လူမှုရေး ထူးချွန်သူ ဘာသာသာသနာအကျိုးဆောင် ဦးအောင်ခိုင်သည် မြေငူ ဆရာတော်ကြီး၏ ဓာတ်တော်များကို ထိုင်းနိုင်ငံ ကန်ချနာပူရီမြို့သို့ပင် အဖူးမြော်ခံ ပင့်ဆောင်သွားခဲ့ဖူးသဖြင့် ထိုင်းနိုင်ငံတွင် ဖုံးဖုံးကြွက်ကြွက် ဖူးမြော်ခံရသည်ကို ကိုယ်တိုင် ကြုံတွေ့ခဲ့ရသဖြင့် သိခွင့်ရခဲ့ပါသည်။)

ဆရာတော်ကြီးသက်တော်ထင်ရှားရှိစဉ်အခါက မဟာကုသလစေတီတော် ဗုဒ္ဓပူဇနိယပွဲတော်ကြီး ကျင်းပပြုလုပ်သည့် အခါတိုင်းမှာ ဆရာတော်ဘုရားကြီး၏ ခိုင်းစေချက်အရ ဓာတ်တော် ဘုရားရှိခိုး ဂါထာပါဠိအနက်တို့ကို စောင်ရေ တစ်သောင်းကျော် ဝေငှခဲ့ဖူးလေသည်ကို သတိရသူများ ရှိကြပါသည်။

## ဓာတ်တော် ၃ ပြည် ၄ ပြည်ပွင့်ပေါ်ခြင်း

ထိုအခါက သာမန်အားဖြင့် စာရွက်ဝေသည်ဟုသာ သဘောထားခဲ့သော်လည်း မြေငူ ဆရာတော်ဘုရားကြီးကို မီးသဂြိုဟ်တော်မူသောအခါ ဓာတ်တော်များ ၃ ပြည်ကျော်ကျော် ၄ ပြည်ခန့် ဖူးမြော်ကြရသဖြင့် ဆက်စပ်လေသလောဟု ဆက်စပ်တွေးယူကြပါသည်။

၁၉၁၅ မြေငူဆရာတော်ဘုရားကြီးကို အေဒီ ၁၉၁၅ ခု၊ စက်တင်ဘာလ ၁၃ ရက်၊ (သက္ကရာဇ် ၁၂၇၇ ခု၊ တော်သလင်းလဆန်း ၅ ရက်) တနင်္လာနေ့တွင် ဖွားမြင်တော်မူခဲ့ကြောင်းသိရပါသည်။ အဖမှာ ဦးထွန်း ဖြစ်၏။ အမိမှာ ဒေါ်ချမ်း ဖြစ်၏။

၁၉၂၅ ၁၉၂၅ ခု (၁၂၈၇ ) ခုနှစ်၊ အသက် ၁၀ နှစ်သားအရွယ်တွင် အနောက်ကျောင်းဆရာတော် ဦးအဂ္ဂဝံသ ထံမှာ ရှင်သာမဏေ ပြုတော်မူကြောင်း သိရှိရပါသည်။ ၎င်းနောက် သက်တော် ၂၀ အရွယ်တွင် ရဟန်းအဖြစ်သို့ ရောက်တော်မူကြောင်း သိရပါသည်။

၁၉၃၅ သက်တော် ၂၀ အရွယ် အေဒီ ၁၉၃၅ ခု၊ ဧပြီလ ၂၈ ရက်၊ တနင်္ဂနွေနေ့ (၁၂၉၇ ခုနှစ်၊ တန်ခူး လပြည့်ကျော် ၁၀ ကျော်နေ့)တွင် မြေငူရွာ ရွာကျောင်း ခဏ္ဍသိမ်၌ အရှေ့ကျောင်းဆရာတော် ဦးဝိသာလကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ဘွဲ့တော် အရှင်ကုသလ ဖြစ်သည်။

(ကျမ်းကိုး။ တင်အောင်သွင်၊ မြေငူရွာ၊ သရက်တောတောရကျောင်းဆရာတော်ကြီးနှင့် အံ့ဖွယ် ဖြစ်ရပ်ဆန်းများ၊ သူရဋ္ဌမဂ္ဂဇင်း အတွဲ ၇၊ အမှတ် ၂ ၂၀၀၇ ၊ဖေဖော်ဝါရီလ)

ရဟန်းတော် အရှင်ကုသလသည် အစိုးရ ပထမငယ်တန်း၊ ပထမလတ်တန်းတို့ အောင်တော်မူခဲ့၏။ အထက်တန်း စာဝါများကိုလည်း ပေါက်မြောက်အောင် လေ့လာဆည်းပူးခဲ့ကြောင်း သိရှိရပါသည်။ ၎င်းနောက် မြေငူရွာ ရွာလယ်ကျောင်းနှင့် သရက်တောရကျောင်း သံဃာများအား နေ့စဉ် စာဝါပို့ချခဲ့သည်ဟု သိရပါသည်။

၁၉၄၆ အေဒီ ၁၉၄၆ ခု (၁၃၀၇ ခုနှစ်)တွင် ယခင်က ထန်းတောကျောင်းဟု ခေါ်



သော ယခုသရက်တောကျောင်းတွင် ကျောင်းထိုင်ဆရာ ဖြစ်လာသည်။ ကျောင်းရှိ သံဃာများအား စာဝါများ ပို့ချတော်မူခဲ့သည်။

ဆရာတော်ကြီးသည် နေ့စဉ်နေ့တိုင်း နံနက်စောစော အချိန်မှန်မှန် ထတော်မူကြောင်း နေ့စဉ် နံနက် ၃ နာရီလောက်တွင် မျက်နှာသစ်၍ ကိုယ်လက်သန့်စင်ပြီးနောက် ကိုယ်တော်တိုင် ရေချမ်း ဆီမီးများကို ကပ်လှူ ပူဇော်လေ့ရှိကြောင်း သိရပါသည်။ ၎င်းနောက် တရား ရှုမှတ်သည်ဟု ဆိုပါသည်။

တရားရှုမှတ်နေစဉ်အတွင်း ယာဂုဆန်ပြုတ် စသည်တို့ကို သွားရောက်ချထား ရပါသည်။ တရားရှုမှတ်ပြီးမှသာ အရုဏ်ဆွမ်းကို ဘုဉ်းပေးလေ့ရှိပါသည်။

ဆရာတော်ကြီး၏ ထူးခြားချက်မှာ ကျောင်းဝင်းတစ်ခုလုံးကို ကိုယ်တော်တိုင် တံမြက်စည်း လှည်းတော်မူခြင်း ဖြစ်ပါသည်။ အမှိုက်များအားလုံးကို ကျင်းကြီးတစ်ခုတည်း ကိုယ်တော်တိုင် သွားရောက် စွန့်ပစ်ပါသည်။ မည်သည့်အခါမှ အမှိုက်များကို မီးရှို့လေ့မရှိဟု ဆိုပါသည်။ ဆွမ်းဘုဉ်းပေးနေစဉ် ဓလေ့ဆန်းတစ်ခုကို တွေ့ရှိရပါသည်။

ဆရာတော် ဆွမ်းဘုဉ်းပေးနေစဉ် ကိုရင်နှင့် ကျောင်းသားများအား ဆရာတော်၏ အနီး၌နေစေ၍ ဘုရားရှိခိုးနေကြရသည်။ ဆွမ်းဘုဉ်းပေးအပြီးနှင့် ဘုရားဝတ်ပြုချိန် မှာ အံကိုက်ဖြစ်နေတတ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၇)

ဆရာတော်ကြီးသည် သတ္တဝါများအပေါ် အလွန်မေတ္တာထားတော်မူကြောင်း ပြောစမှတ်ပြုကြ ပါသည်။ ထိုအချက်ကို ဖားတစ်ကောင်နှင့် မြွေတစ်ကောင်က သက်သေထူခဲ့သည်ဟု ဆိုပါသည်။ ကြည့်ပါ။

**ဆရာတော်ကျိန်းစက်ရာ သစ်သားခေါင်းအုံးကလေး၏ အောက်တွင် ရန်ဖက်ဖြစ်သည့် ဖားတစ်ကောင်နှင့်မြွေတစ်ကောင်တို့ အတူနေထိုင်ကြသည် ကို နှစ်ကြိမ်တိုင်တိုင် တွေ့ရှိခဲ့ဖူးပါသည်။**

ဆရာတော်၏ မေတ္တာကရုဏာမှာ အလွန်ကြီးမားတော်မူကြောင်း အမှတ်တရ ပြောဆိုလေ့ရှိကြ ပါသည်။ ထိုအချက်ကို ကိုယ်ရေပြား ရောဂါစွဲနေသော ကိုရင်တစ်ပါး၏ ဖြစ်ရပ်က ယခုတိုင် ပြောစမှတ် ရှိကြပါသည်။

တစ်ခါတွင် ဆရာတော်ထံ တပည့်ခံဖူးသည့် ကိုရင်တစ်ပါးသည် လူထွက်ပြီး မှ ကိုယ်ရေပြားရောဂါ စွဲကပ်လာခဲ့သည်။ သူ၏ ဆွေမျိုးများက လက်မခံသဖြင့် ဆရာတော်ကိုယ်တိုင် ဆွမ်းခံကျွေးကာ ဇီဝိတဒါန ပြုတော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၈)

## ဆရာတော်ကြီး၏ တစ်နေ့တာ မှတ်တမ်း

ဆရာတော်ကြီး၏ တစ်နေ့တာမှတ်တမ်းမှာ လွန်စွာ မှတ်သားဖွယ်ရာ ကောင်းပါလှပါသည်။ အချိန်ကို အကွက်စေ့အောင် အသုံးချ၍ တရားအားထုတ် ဘုရားအလုပ်ကို လုပ်တော်မူကြောင်း တွေ့ရှိရ ပါသည်။ အောက်ပါမှတ်တမ်းကိုကြည့်ပါ။

ဆရာတော်၏ ထူးခြားသော ဓလေ့မှာ နေ့စဉ်အချိန်မှန်မှန် ရေချိုးလေ့ရှိ ကြောင်း သိရပါသည်။

နေ့လယ် ၁ နာရီအချိန်တွင် ရေချိုးတော်မူသည်ဟု မှတ်သားထားသူများက ဆိုကြပါသည်။

၎င်းနောက် နေ့လယ် ၂ နာရီ အချိန်လောက်တွင် ကျောင်းဝင်းအတွင်းရှိ သစ်ပင်များအား ကိုယ်တော်တိုင် ရေလောင်းလေ့ရှိကြောင်း အမြဲတွေ့ရသည်ဟု အမြဲမှတ်ထားသူက ဆိုပါသည်။



ဎင်းနောက် ဆရာတော်သည် ညနေ ၄ နာရီ အချိန်လောက်အထိ ရေလောင်းပြီးသည်နှင့် တရားထိုင်လေ့ရှိကြောင်း လေ့လာထားသူများက ဆိုကြပါသည်။

ဎင်းနောက် ညနေ ၄ နာရီ ကျော်ကျော်လောက်တွင် တောထဲသို့ ကြွသွားလေ့ရှိကြောင်း သိရပါသည်။ ထိုအခါ ကြိမ်တုတ် သေးသေးကလေးတစ်ခုကိုလည်း ကိုင်ဆောင်သွားလေ့ရှိကြောင်း ပြောဆိုကြပါသည်။

ညနေ ၅ နာရီလောက်တွင်ကား ကျောင်းသို့ ပြန်လည်ကြွရောက်လာကြောင်း ပြောဆိုကြပါသည်။

ကျောင်းသို့ ပြန်ရောက်ပြီးသည့်နောက် ဘုရားရှင်ကိုယ်တော်မြတ်ကြီးအား ရေချမ်း ဆီမီးများကို ကပ်လှူပူဇော်လေ့ရှိကြောင်း သိရှိရပါသည်။

ဎင်းနောက် ညနေစောင်းတွင် တောထဲသို့ နောက်တစ်ကြိမ် ပြန်လည်ထွက်ခွာသွားကြောင်းသိရှိရပါသည်။ အကြောင်းရင်းကိုကားမသိကြပါဟု ဆိုကြပါသည်။

ဎင်းနောက် ည ၉ နာရီအချိန်လောက်တွင် ကျောင်းသို့ ပြန်လာရောက်ရှိလာသည်ဟု ဆိုပါသည်။

ဎင်းနောက် ည ၁၀ နာရီ ကျော်ကျော်လောက်တွင် ခေတ္တခဏမျှ နားနေသည်ဟု ဆိုပါသည်။ ညအခါလည်း မည်သည့်အခါမျှ နှစ်နှစ်ခြိုက်ခြိုက် ကျိန်းစက်လေ့မရှိကြောင်း ပြောဆိုကြပါသည်။

အထက်ပါ အကြောင်းအခြင်းအရာများကို အနီးကပ်လေ့လာ မှတ်သားသူတို့ မှတ်သားချက်အရ ဖြစ်ပါသည်။ ဆရာတော် ဘုရားကြီး စေတီတည်ထားစဉ်အခါက ဦးဉာဏ်ဆိုသူသည် ဆရာတော်ကြီးနှင့် အနီးကပ်အားဖြင့် ၄ လ ကျော်ကျော်မျှ နေခဲ့ဖူးသဖြင့် ဆရာတော်ကြီး၏ တစ်နေ့တာ သဘောသဘာဝကို သိသင့်သလောက် သိရသည်ဟုဆိုပါသည်။

ဆရာတော်ကြီး၏ မေတ္တာတော် တန်ခိုးအာနုဘော်တော်ကို ရိပ်မိလောက်သော အချက်တစ်ခုမှာ ဘုရားဒကာကြီး ဦးဉာဏ်၏ ဇနီးဖြစ်သူ ဆီးချိုရောဂါ ပျောက်ကင်းသည့်ကိစ္စတွင် ရိပ်မိနိုင်ပါသည်။ လေ့လာကြည့်ပါ။

တစ်ခါတွင် ဆရာတော်က ဦးဉာဏ်အား ဘုရားစေတီတည်ရာတွင် စိတ်ထားတတ်က ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်းဆိုက်ရောက်နိုင်ကြောင်း ဟောကြားသည်။

ဦးဉာဏ်က -

တပည့်တော်တော့ ဘာမှမလိုချင်ပါဘူး၊ တပည့်တော်မိန်းမ ဆီးချိုရောဂါ ပျောက်လျှင် တော်ပါပြီဟု အမှတ်တမဲ့ လျှောက်ထားလိုက်မိသည်။ ဦးဉာဏ်၏ ဇနီး ဒေါ်ခင်စန်းအုံးမှာ ဆီးချိုရောဂါဖြစ်နေသည်မှာ (၁၁)နှစ်ရှိပေပြီ။ မည်သည့် ဆေးနှင့်မျှ မပျောက်ခဲ့ပါပေ။ ယခုအခါ ဘုရားတည်ပြီးဖြစ်၍ ပွဲတော်များပင် ပြုလုပ်နေပါပြီ။ ဒေါ်ခင်စန်းအုန်းလည်း ဆီးချိုရောဂါ ပျောက်ကင်းသွားပြီဖြစ်၍ တရားရှုမှတ် အားထုတ်နိုင်ခဲ့ပါပြီ။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၈၉)

ဓာတ်တော်ကျပုံအလုံးစုံကို ယခုကျမ်းစာအုပ်၏ နိဒါန်းတွင် အပြည့်အစုံဖတ်ရှုနိုင်ပါသည်။

ဤကား ရှာဖွေစုဆောင်းထားသမျှဖြစ်ပါသည်။ ပိုမိုသိသူများ ဖြည့်စွက်ကြပါ။

ရန်ကုန်မြို့ သင်္ဃန်းကျွန်းမြို့နယ်၊ မေဃဝတီတောရကျောင်းတိုက်
မေဃဝတီဆရာတော်ဘုရားကြီး

# သီရိဘဒ္ဒန္တ ရေဝတ မဟာထေရ်မြတ်

အေဒီ ၁၉၁၈ – ၂၀၀၄ ( ၁၂၈၀ – ၁၃၆၆)





၆၅ ဝါရ ဦးပဥ္စင်းအိုကြီး ဦးရေဝတ ခွင့်ပြုတော်မူသဖြင့် ရိုက်နှိပ်တော်မူသော ၁၃၆၅ ခု၊ တန်ခူးလဆန်း ၁၅ ရက်၊ ဗုဒ္ဓဟူးနေ့စွဲဖြင့် စာတွင် အောက်ပါအတိုင်း တွေ့ရှိရပါသည်။

ရန်ကုန်မြို့ ဦးစွန်း၊ သယ်န်းကျွန်းမြို့နယ်၊ ကျိုက္ကဆံ အရှေ့ပိုင်း ဘဝမြင့် ရိပ်သာအနီး မေယဝတီတောရ ကျောင်းတိုက်အတွင်းဝယ် သီတင်းသုံးလျက်ရှိသော (၆၅)ဝါရ ဦးပဥ္စင်းအိုကြီး ဦးရေဝတ ရွတ်ဆိုပူဇော်အပ်သော ပါဠိတော်ဒေသနာများကို အသံသွင်းရာ၌ ရန်ကုန်မြို့ လသာလမ်း၊ အမှတ် ၁၂၅ နေ ဦးအောင်လင်း၊ ဇနီးဒေါ်စန်းစန်းမြင့်တို့၏ သားကြီးရတနာ မောင်မျိုးသန့်သည် လုပ်ကိုင်ဆောင်ရွက်ပေးခြင်း၊ အသံသွင်းစက် စသည်များ လှူဒါန်းခြင်းတို့ကို မှတ်တမ်းတင်သည်။

(ကျမ်းကိုး၊ စုံရိပ်ပူပန် ဘေးတန်တန် အေးရန် ဒေသနာ)

ဤတွင် ခွင့်ပြုသည့် ပုဂ္ဂိုလ် ၆၅ ဝါ ရ ဦးပဥ္စင်းအိုကြီး ဦးရေဝတ ဆိုသည်မှာ သိရီဘဒ္ဒန္တရေဝတ ဘိက္ခုဟူ၍ သိရှိရပါသည်။ ဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကထာကို ကံကောင်းထောက်မစွာ ရှာဖွေရရှိခဲ့သော်လည်း အတိုအကျဉ်းမျှသာ ဖြစ်ပါသည်။

၁၉၁၈ မြန်မာနှစ် ၁၂၈၀ ပြည့်၊ တန်ဆောင်မုန်းလဆုတ် ၃ ရက်၊ ဗုဒ္ဓဟူးနေ့ ညလထွက် ၈ နာရီအချိန် (ခရစ်နှစ် ၁၉၁၈ ခုနှစ်၊ နိုဝင်ဘာလ ၂၀ ရက်၊ ၂၀ နာရီအချိန်) တွင် ပဲခူးတိုင်း သနပ်ပင်အပိုင်၊ သနပ်ပင်မြို့ အရှေ့ဘက် ၁၅ မိုင်အကွာ အရှေ့လောင်ဂျီတွဒ် ၉၆ ဒီဂရီ ၃၄ မိနစ်၊ မြောက်လတ္တီတွဒ် ၁၇ ဒီဂရီ ၁၈ မိနစ် ညာဏ်ကျွန်းကျေးရွာ၌ အဖခမည်းတော် ဦးဖိုးသိုက်၊ အမိ မယ်တော် ဒေါ်မြင့်ကြည်တို့မှ ဆရာတော်လောင်းလျာကို မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့ပါသည်။

ခမည်းတော် မယ်တော်တို့၏ ချစ်လှစွာသော နဝမမြောက် သားလှရတနာ တစ်ပါး ဖြစ်ပေသည်။ ငယ်မည်မှာ မောင်အေးဖြစ်၏။

၁၉၃၅ ပဲခူးမြို့ ရွှေသာလျောင်းဘုရားကြီးအနီး မျက်နှာတော်ကျောင်းတိုက် ဆရာတော် ဉူးစာရိန္ဒထံတွင် အေဒီ ၁၉၃၅ ခု၊ ဖေဖော်ဝါရီ ၁၃ ရက်၊ (၁၂၉၆ ခုနှစ်၊ တပို့တွဲလဆန်း ၁၁ ရက် ကြာသပတေးနေ့)၌ ဆရာတော်အား ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေ အဖြစ်သို့ ရောက်ရှိခဲ့သည်။ ဘွဲ့တော်မှာ ရှင်ရေဝတဖြစ်။

(မှတ်ချက်၊ ၁၂၉၆ ခု၊ တပို့တွဲလဆန်း ၁၁ ရက်နေ့မှာ ၁၉၃၅ ခု၊ ဖေဖော်ဝါရီလ ၁၃ ရက်နေ့ ဗုဒ္ဓဟူးနေ့ ဖြစ်၏။ ယခု မှတ်တမ်းတွင် ကြာသပတေးနေ့ဟု တွေ့ရှိရပါသည်။)

(ကျမ်းကိုး၊ အင်္ဂလိပ် မြန်မာ၊ နှစ်တစ်ရာ ပြက္ခဒိန် ၁၂၂၅ မှ ၁၃၂၉ အထိ၊ ပညာအလင်းပြ ပုံနှိပ်တိုက် ၁၉၆၆ ခု၊ စာမျက်နှာ ၄၂၇ ကို ကြည့်ပါ။)

၁၉၃၈ အေဒီ ၁၉၃၈ ခု၊ မေလ ၂၀ ရက်၊ (၁၃၀၀ ပြည့်နှစ်၊ ကဆုန်လဆုတ် ၇ ရက်၊ ကြာသပတေးနေ့) နေ့လယ် ၁ နာရီ မိနစ် ၅၀ အချိန်တွင် ပဲခူးမြို့ ရွှေသာလျောင်းဘုရားလမ်း မဟာကလျာဏီတောရကျောင်းတိုက် ပထမဆရာတော်ဘုရားကြီး ဉူးစန္ဒိမာအား ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်လှစွာသော ရဟန်းအဖြစ်သို့ ရောက်ရှိလာသည်။

(မှတ်ချက်၊ ၁၃၀၀ ပြည့် ကဆုန်လဆုတ် ၇ ရက်မှာ ၁၉၃၈ ခု၊ မေလ ၂၀ ရက် ဖြစ်၏။ သောကြာနေ့ ဖြစ်၏။ ယခု မှတ်တမ်းတွင် ကြာသပတေးနေ့ဟု ဆိုထားပါ၏။)



(ကျမ်းကိုး၊ အင်္ဂလိပ် မြန်မာ၊ နှစ်တစ်ရာ ပြက္ခဒိန် ၁၂၂၅ မှ ၁၃၂၉ အထိ၊ ပညာအလင်းပြ ပုံနှိပ်တိုက် ၁၉၆၆ ခု၊ စာမျက်နှာ ၄၄၇ ကို ကြည့်ပါ။)

အထက်အောက် မြန်မာပြည်အရပ်ရပ်တွင် ပရိယတ္တိ၊ ပဋိပတ္တိ စာပေ တရားဓမ္မများကို သင်ကြားအားထုတ်ခဲ့ပေသည်။

မေဃဝတီတောရ ကျောင်းတိုက်ကြီးတွင် ဆရာတော်ဘုရားကြီး၏ ဓာတ်တော်များကို အပူဇော်ခံရာတွင် ဆရာတော်ဘုရားကြီး၏ ကျောင်းဝင်းအတွင်းမှ အံ့ဩထူးဆန်းဖွယ်ရာများကို အမှတ်မထင် သိခွင့်ရခဲ့သဖြင့် မပျောက်မပျက်အောင် မှတ်တမ်းတင်ရပါသည်။

၁၉၈၆ အေဒီ ၁၉၈၆ ခု၊ မတ်လ ၁၄ ရက်၊ ၁၃၄၈ ခု၊ တပေါင်းလဆန်း ၁၅ ရက်နေ့ စနေနေ့တွင် သယ်န်းကျွန်းမြို့နယ်၊ ကျိုက္ကစံအရှေ့ပိုင်း၊ မေဃဝတီ တောရကျောင်းတိုက်အတွင်း စိုက်ပျိုးထားသော ပိန္နဲပင်မှ သကြားဩဇာသီး သီးနေကြောင်း သိရှိရပါသည်။ ထိုအပင်ကို ၁၃၂၆ ခုနှစ်က စိုက်ပျိုးခဲ့ကြောင်း သိရပါသည်။ အသီးသီးသော နှစ်မှာ ၁၃၄၀ ခုနှစ်ဖြစ်၏။ ထိုမှတ်တမ်းကိုလည်း မှတ်သားခဲ့ရပါသည်။

၎င်းအပြင် ထူးခြားသော ငှက်ပျောပင် မှတ်တမ်းကိုလည်း မှတ်ခဲ့ရပါသည်။

၁၉၆၀ အေဒီ ၁၉၆၀ ခု၊ ဇန်နဝါရီလ (၁၃၂၁ ခု၊ တပို့တွဲလ)တွင် မေဃဝတီ ကျောင်းတိုက်အတွင်းဝယ် ငှက်ပျောပင်၏ ပင်စည်အလယ်တည့်တည့်မှ အဖူးထွက်၍ ၂၄ ဖီး ဖီးလျက်နေကြောင်း အခိုင်ဖြစ်နေကြောင်း သိခွင့်ရခဲ့ပါသည်။

၂၀၀၄ ဆရာတော်ကြီးသည် အေဒီ ၂၀၀၄ ခု၊ စက်တင်ဘာ ၂၈ ရက်တွင် ခန္ဓာဝန်ချ တော်မူပါသည်။ ပရိနိဗ္ဗာန်ပြုတော်မူပါသည်။

၂၀၀၄ အေဒီ ၂၀၀၄ ခု၊ အောက်တိုဘာ ၂၇ ရက်၊ နံနက် ၇ နာရီခန့် အရိုးတော် ပြာတော်များ ကောက်ယူရာတွင် မေဃဝတီဆရာတော်ဘုရားကြီး၏ ဓာတ်တော်များကို ကြည်ညိုစဖွယ် အံ့ဩမဆုံးနိုင်အောင် ဖူးတွေ့ရပါသည်။

ထိုအံ့ဖွယ် ကြည်ညိုဖွယ်ဖြစ်သော ဓာတ်တော်များကို ဓာတ်တော်ပြတိုက်ကြီး ခမ်းခမ်း နားနား ကြီးကြီးကျယ်ကျယ် ပြုလုပ်၍ ထားရှိသဖြင့် ထာဝရ ဖူးခွင့်ရခဲ့ကြောင်းသိရပါသည်။

(ကျမ်းကိုး၊ စိုးရိမ်ပူပန် ဘေးတန်တန်၊ အေးရန်ဒေသနာ)

တောင်သာမြို့နယ် ဆည်ကုန်းရွာမှ ဆရာတော်ကြီး

# ရဟန်းထူး ဦးကောဏ္ဍည မဟာထေရ်

အေဒီ ၁၉၁၉ – ၁၉၉၁ ( ၁၂၈၁ – ၁၃၅၃ )





၁၉၉၂ အေဒီ ၁၉၉၂ ခု (၁၃၅၃ ခုနှစ်) တွင် သက်တော် ၇၃ နှစ် ရှိတော်မူသော ဆရာတော်ကြီးတစ်ပါး ပျံလွန်တော်မူသည်ဟု ကြားသိရပါသည်။ ထိုအခါ အလွန်ထူးဆန်းသောအချက်မှာ ကျောင်းအတွင်းရှိ ခွေးများသည်လည်းကောင်း၊ ဘဲငန်းများသည်လည်းကောင်း၊ အကြောင်းထူးမရှိဘဲ အားလုံးပြိုင်တူ အော်ကြဟစ်ကြသည်မှာ တစ်နာရီခန့်မျှ ကြာသည်ဟုဆိုပါသည်။

## ကြက်တူရွေးတစ်ကောင်က ဘုန်းဘုန်းရေဟု လာ၍ အော်

ထိုအထိလည်း မထူးဟုဆိုလျှင် ဆိုနိုင်ပါသေးသည်။ သို့သော် ထူးသည်ဟု မုချဆိုနိုင်သော ကိစ္စတစ်ခုကလည်း အမှတ်ထင်ထင် ဖြစ်ပေါ်လာခဲ့ပါသည်။ ထိုအချက်မှာ အခြားမဟုတ်။ ဘယ်ကမှန်းမသိသော ကြက်တူရွေးတစ်ကောင်သည် အလိုလိုပျံသန်းလာပြီးလျှင် ခန္ဓာဝန်ချတော်မူပြီးဖြစ်သော ဆရာတော်ကြီး၏ ခြေတော်ရင်းတွင်နား၍ ဝပ်စင်း၍ ဘုန်းဘုန်းရေ ဘုန်းဘုန်းရေဟု ပီပီသသကြီး လူကဲ့သို့ အော်ခေါ်နေသည်မှာ မိနစ် ၆၀ လောက်ပင် ကြာကြောင်း ကိုယ်တွေ့မျက်မြင် ပုဂ္ဂိုလ်များက ပြောကြားကြပါသည်။

ထို့ကြောင့်လည်း ထိုဆရာတော်ကြီးသည် ပုဂ္ဂိုလ်ထူးကြီး ဖြစ်ကြောင်း အုတ်အော်သောင်းတင်း ဖြစ်သွားခဲ့ပါသည်။ ထိုအချက်ကြောင့်ပင် ထူးသည်ဟု ဆိုခဲ့ခြင်းဖြစ်ပါသည်။

ခန္ဓာဝန်ချ၍ ၃ ရက် ကြာသောအခါ အများဆန္ဒအရ ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို မြေဂူသွင်းထားခဲ့ကြောင်း သိရပါသည်။ ဤအထိလည်း အကျယ်ချဲ့၍ ပြောစရာ မလိုသေးဟု ဆိုချင်လျှင် ဆိုနိုင်ပါသေးသည်။

## ၈ လအကြာ မြေထဲမှာ

နောက်ထပ် ၈ လမြောက်တိတိ ကြာသောအခါ နိဗ္ဗာန်ကျောင်းတင်ပွဲ ပြုလုပ်ရန်အလို့ငှာ ရုပ်ကလာပ်တော်ကို မြေဂူအတွင်းမှ ပြန်လည်ဖော်ယူသော အခါမှာ ပို၍အံ့ဩရပါတော့သည်။

အဘယ်ကြောင့်ဆိုသော် ရုပ်ကလာပ်တော်ကြီးမှာ ၈ လတိတိ ကြာညောင်းခဲ့သော်လည်း မပြိုမကွဲ အဆက်မပြုတ် အသားတော်မပဲ့ ရှိနေခဲ့ပါသည်။ ရုပ်ကလာပ်တော်ကြီးမှာ မူလ ဥပမိရုပ်သွင်အတိုင်း ဖူးတွေ့ခဲ့ကြရပါသည်။

၁၉၉၂ ထို့ကြောင့် ကြွင်းကျန်သော ရုပ်ကလာပ်တော်ကို အေဒီ ၁၉၉၂ ခု၊ ဧပြီလ ၉ ရက်၊ ကြာသပတေးနေ့၊ သောကြာနေ့၊ စနေနေ့ (၁၃၅၄ ခု နှောင်းတန်ခူးလဆန်း ၇ ရက်နေ့) ၈ ရက်၊ ၉ ရက် နေ့များတွင် အပြစ်လွတ်ကင်းရာအရပ်သို့ ပင့်ဆောင်တော်မူပြီးလျှင် သာစုကီဠနသဘင် ဆင်ယင်ကျင်းပခဲ့ကြောင်း သိရှိရပါသည်။ အစဉ်အလာ မပျက်စေရဘဲ မီးသင်္ဂြိုဟ် ပူဇော်ခဲ့ကြပါသည်။

## အရိုးစု ဓာတ်တော်များ စေတီတည်



ထိုအခါမှာလည်း ရုပ်ကလာပ်တော်ကြီး တွန့်လိမ်ခြင်းလည်းမဖြစ်၊ အညှော်နံ့လည်းမထွက်၊ ပကတိ တည်ငြိမ်စွာဖြင့် မိုးဖွဲဖွဲလေးအောက်တွင် မီးလောင်သွားကြောင်း သိရှိရပါသည်။ ဆရာတော်ကြီး၏ အရိုးစု ဓာတ်တို့ကို ဂူပြာသဒ်အတွင်း ပူဇော်ထားရှိခြင်းမှာ ယနေ့တိုင် ဖူးမြော်နိုင်ပါသည်။

( မှတ်ချက် ) ဂူပြာသဒ် ဒါယကာမှာ ရန်ကုန်မြို့ တာမွေမြို့နယ် သတိပဋ္ဌာန်လမ်းနေ ဦးမောင်မောင် ဇနီး ဒေါ်အေးအေးတို့ မိသားစု ဖြစ်ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကထာကို ရှာဖွေရာ သာသနာ့ပြုစာရေးဆရာ ဦးခင်မောင်တင့် (ဝဲလောင်)၏ စာမူအရ သိရှိရပါသည်။ အကျယ်သိလိုသူတို့သည် ၁၉၉၅ ခု၊ မတ်လထုတ် မြတ်မင်္ဂလာ မဂ္ဂဇင်း အတွဲ ၁၀၊ အမှတ် ၉ တွင် ရှာဖွေ ဖတ်ရှုစေချင်ပါသည်။ ကျွန်တော်မှတ်စုထုတ်ထားသမျှမှာ အထက်ပါအတိုင်း ဖြစ်ပါသည်။)

● ● ●

ညောင်ပင်အိုင်ဆရာတော်ဘုရားကြီး

# ဦးနန္ဒောဘာသ

အေဒီ ၁၉၂၁ - ၂၀၀၃ ( ၁၂၈၃ - ၁၃၆၅ )





ညောင်ပင်အိုင်ဆရာတော်ဘုရားကြီးကို သက်ရှိထင်ရှားရှိစဉ်က မဖူးခဲ့ရသော်လည်း ဆရာတော် ဘုရားကြီး၏ နောက်ဆုံးနေ့တွင် ဖူးမြော်ခဲ့ရပါသည်။ အလွန်ထူးဆန်းပါသည်။ ဒေါက်တာခင်ရွှေ၏ ကောင်းမှုကြောင့်ဟု ဆိုရပါမည်။ အကြောင်းစုံမှာ ဤသို့ဖြစ်ပါသည်။

ဒေါက်တာခင်ရွှေ ခေါင်းဆောင်သော စီးပွားရေးလုပ်ငန်းရှင်များသည် ကုန်သွယ်စီးပွားအတွက် မိုင်းလားမှတစ်ဆင့် တရုတ်ပြည်သို့ သွားရောက်လေ့လာပြီးနောက် အပြန်ခရီးတွင် ပုဂံမြို့မှာ ညီလာခံကြီးရှိသဖြင့် သုတ်ချေတင်ကာ ခရီးပြင်းနှင်ခဲ့ရပါသည်။ ထိုအဖွဲ့ထဲတွင် ကျွန်တော်လည်း ပါခဲ့သည်ဖြစ်ရာ ပြင်ဦးလွင်ခေါ် မေမြို့သို့ နံနက်စောစောစီးစီး ရောက်ရှိခဲ့ပါသည်။ ထိုစဉ်က မော်တော်ကား ဓာတ်ဆီထည့်နေတုန်းကာလ ဖြစ်ပါသည်။

ဒေါက်တာ ဦးခင်ရွှေ၏ကားမှာ ဦးစွာပထမ ဓာတ်ဆီထည့်ပြီးနောက် အခြားကားများ ထည့်ကြပါသည်။ ထိုစဉ်က ငါးမိနစ်မျှ ကာလကလေးတွင် ဒေါက်တာခင်ရွှေသည် ဈေးဆိုင်ဘေးရှိ ဆိုင်းဘုတ်ကလေးကို ဖတ်ကြည့်မိသည်ဟုဆိုပါသည်။ ထိုဆိုင်းဘုတ်ကလေးတွင် ဖတ်ရှုရသည်မှာ 'ညောင်ပင်အိုင်တောရ ပြင်ဦးလွင်စခန်းခွဲ'ဟူ၍ ဖြစ်ပါသတဲ့။

ထိုအခါ ဒေါက်တာခင်ရွှေက ညောင်ပင်အိုင်တောရဆိုတော့ အဆန်းပဲဟု ဝင်၍သွားလိုက်ရာ လူတစ်စုတို့ ရုတ်ရုတ်သဲသဲ အလုပ်ရှုပ်နေသည်ကို တွေ့ရသည်ဟုဆိုပါသည်။ ထိုအခါ ဘာလဲဟု မေးကြည့်သောအခါ ညောင်ပင်အိုင် တောရဆရာတော်ကြီး ပြင်ဦးလွင်သို့ ဆေးကုရန် ခေတ္တလာခိုက် အခုကလေးပဲ ခန္ဓာဝန်ချသွားသည်ဟုဆိုပါသည်။

ဒီတော့ စောစောစီးစီးဖြစ်သဖြင့် ဘယ်သူမှမသိ၊ ဘယ်သူမှလည်းမရှိ၊ ထိုစဉ် ဒေါက်တာခင်ရွှေ ရောက်သွားသဖြင့် ဒေါက်တာခင်ရွှေသည် 'ညောင်ပင်အိုင်ဆရာတော်ဘုရားကြီးကို ဖူးရသည်မှာ ကံကောင်းပေစွ။ အရတော်ပေစွ'ဟု ပါးစပ်မှ တဖွဖွပြောကာ 'ဆွမ်းဒါယကာ လုပ်ပါရစေ'ဟုဆိုပြီး သက်ပျောက်ဆွမ်းအတွက် ငွေဆယ်သိန်းချက်ချင်းလှူခဲ့ပါသည်။

ပြီးတော့ ချက်ချင်းပြန်လာပြီး ဓာတ်ဆီဆိုင်မှ ကျွန်တော်တို့တစ်စုကို အမြန်လာ၍ ခေါ်သဖြင့် အမြန်သွား၍ဖူးကြရပါသည်။ ထိုအချက်ကိုမူတည်၍ ဒေါက်တာခင်ရွှေ၏ ကောင်းမှုကြောင့် ညောင်ပင်အိုင် ဆရာတော်ဘုရားကြီးကို ဖူးခဲ့ရသည်ဟု ဆိုခဲ့ခြင်းဖြစ်ပါသည်။

ထိုအချိန်သည် နံနက်စောစော ၅/၆ နာရီမျှသာ ရှိသေးသဖြင့် လူများသိပ်ပြီးမသိသေးပါ။ စောစွာသိရှိရသည်မှာ ပြင်ဦးလွင်စိတ်တက္ကသိုလ်ကျောင်းအုပ်ကြီး၏ ကောင်းမှုကြောင့်ပင်ဖြစ်ပါသည်။ ဗိုလ်ချုပ်သည် နယ်မြေမှူးလည်း ဖြစ်သဖြင့် သူကပင် ဦးစီးဦးဆောင်ပြု၍ ညောင်ပင်အိုင်ဆရာတော်ကြီး ရုပ်ကလာပ် အခမ်းအနားကို ပြုလုပ်ခဲ့ပါသည်။ ထို့ကြောင့် ကျွန်ုပ်တို့ တစ်စုလည်း ဖူးရခဲလှစွာသော ညောင်ပင်အိုင်တောရ ဆရာတော်ကြီးကို ဖူးခဲ့ရသည်သာမက သက်ပျောက်ဆွမ်းကပ်၍ ရေစက်သွန်းချ အမျှဝေခြင်း ကောင်းမှုအစုစုကိုပင်လျှင် ပြုခဲ့ရပါသေးသည်။ ထိုနေ့သည် ၂၀၀၃ ခုနှစ် အောက်တိုဘာ ၂၀ ရက်၊ တနင်္လာနေ့ နံနက်စောစောဖြစ်ပါသည်။ ဇေကမ္ဘာဥက္ကဋ္ဌဒေါက်တာခင်ရွှေ ဦးဆောင်သော မြန်မာ့စီးပွားရေး လုပ်ငန်းရှင်များသည် တရုတ်ပြည်မှ နှစ်နိုင်ငံ အကျိုးအတွက် စီးပွားရေးလုပ်ငန်းများ ဆွေးနွေးပြီး ပြန်၍အလာ ပြင်ဦးလွင်သို့ ရောက်သောနေ့ဖြစ်ပါသည်။ ထိုမှတစ်ဆင့် ပုဂံသို့ ဆက်၍ သွားမည်ဖြစ်ပါသည်။

၂၀၀၃ ညောင်ပင်အိုင်ဆရာတော်ကြီး အရှင်နန္ဒောဘာသသည် ၂၀၀၃ ခုနှစ်၊ အောက်တိုဘာလ ၂၀ ရက်၊ တနင်္လာနေ့၊ (၁၃၆၅ ခု၊ သီတင်းကျွတ်လပြည့်ကျော် ၁၀ ရက်နေ့)တွင် ပြင်ဦးလွင်မြို့၊ ညောင်ပင်အိုင်တောရကျောင်းခွဲတွင် သီတင်းသုံးလျက်ရှိစဉ် တစ်ဘဝတစ်ခန္ဓာကို သိမ်းတော်မူခဲ့ကြောင်း သိရပါသည်။



ဤရွှေ့ဤမျှ ကြုံထိုက်သဖြင့် ကြုံရသောကြောင့် ကြည်ညိုရင်းစွဲရှိသော ညောင်ပင်အိုင် ဆရာတော်ဘုရားကြီးအကြောင်းကို ဆက်လက်လေ့လာရာ အောက်ပါအတိုင်းတွေ့ရှိရပါသည်။

**ဖွားမြင်တော်မူခြင်း**

မကွေးတိုင်းဒေသကြီး၊ ရေစကြိုမြို့နယ်၊ ဖူလုံကျေးရွာ ခမည်းတော် ဦးသာဆွယ်၊ မယ်တော် ဒေါ်နှင်းတုတ်တို့မှ မီးရှူးသန့်စင် ဖွားမြင်သည်။ မွေးချင်း ၅ ယောက်အနက် မောင်ထွန်းရှိန်သည် အငယ်ဆုံးသား ဖြစ်ပါသည်။

၁၉၃၁ မောင်ထွန်းရှိန်ကို အေဒီ ၁၉၂၁ ခု၊ ဒီဇင်ဘာလ ၃၁ ရက်၊ (ကောဇာသက္ကရာဇ် ၁၂၈၃ ခုနှစ်၊ ပြာသိုလဆန်း ၃ ရက်)စနေနေ့ နံနက် ၃ နာရီအချိန် ဖွားသန့်စင်တော်မူခဲ့ပေသည်။

**ငယ်စဉ်ဘဝ ထူးခြားစွ**

မောင်ထွန်းရှိန်သည် အခြားကလေးများနှင့်မတူ တစ်မူထူးခြားစွာ လူကြီးမိဘများက ဖူလုံရွာဦးဘုန်းတော်ကြီးကျောင်းသို့ ဥပုသ်သီတင်းဆောက်တည်ရန်သွားကြသည့်အခါတိုင်း သားငယ်ကို ခေါ်ဆောင်သွားတတ်ကြပါသည်။ ကျောင်းသို့ရောက်သော် အခြားကလေးများက ကျောင်း၌မနေချင်၊ မိမိအိမ်သို့သာ ပြန်ချင်တတ်ကြသော်လည်း မောင်ထွန်းရှိန်မှာ ကျောင်းတွင်နေရသည်ကို အိမ်၌နေရသည်ထက် အထူးနှစ်သက် ပျော်ရွှင်နေပါသည်။

လူကြီးမိဘများက အသက်အရွယ် ငယ်ရွယ်နုနယ်လှသေး သားရွှေသွေးအား ကျောင်းမအပ်သေးသော်လည်း အိမ်နီးချင်း ကျောင်းသားကြီးများနှင့်အတူ ကျောင်းလိုက်နေသော ဟူ၏။

၁၉၂၈ ထို့ကြောင့် မောင်ထွန်းရှိန်၏ မိဘများသည် အေဒီ ၁၉၂၈ ခု (၁၂၉၀ ခု) သားငယ် ၇ နှစ်သား အရွယ်ခန့်တွင် 'ဖူလုံရွာဦး ပတ္တပိုင်ကျောင်းတိုက်' ဘုန်းတော်ကြီး ဦးဥတ္တရထံတွင် စာပေကျမ်းဂန် သင်ကြားရန် အပ်နှံခဲ့ပါသည်။ မောင်ထွန်းရှိန်သည် ကျောင်းအပ်ပြီးချိန်ကစပြီး အိမ်မှာမမြဲ၊ ကျောင်း၌မြဲသော ကျောင်းသားကလေး မောင်ထွန်းရှိန် ဖြစ်လာပါသည်။

ဆရာတော် ဦးဥတ္တရသည် ပခုက္ကူ သာသနာဝင်၌ ထင်ရှားကျော်ကြားတော်မူခဲ့သော ဂူဖြူဆရာတော်ဘုရားကြီး၏ တပည့်တစ်ပါးပင်ဖြစ်ပါသည်။ မောင်ထွန်းရှိန်သည် ဆရာတော် ဦးဥတ္တရ၊ ဦးသောဘဏ၊ ဦးကုဏ္ဍာစာရတို့ထံပါးတွင် စာပေများကို ကြိုးစားသင်ယူခဲ့ပါသည်။

**ရှင်သာမဏေဖြစ်ခြင်း**

၁၉၃၄ အေဒီ ၁၉၃၄ ခု (၁၂၉၅ ခုနှစ်)တွင် ဖူလုံရွာ ပတ္တပိုင်ကျောင်း၌ မောင်ထွန်းရှိန် ၁၂ နှစ်သားအရွယ်တွင် ဆရာတော် ဦးဥတ္တရကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေ ဝတ်ရာ ရှင်သာမဏေဘွဲ့တော်မှာ 'ရှင်နန္ဒောဘာသ' ဟု မှည့်ခေါ်ပါသည်။

၁၉၃၉ အေဒီ ၁၉၃၉ ခု (၁၃၀၀ ပြည့်နှစ်) ၁၇ နှစ်သားအရွယ် သာမဏေ ၅ ဝါ ရပြီး စစ်ကိုင်းတောင်ရိုး၊ ရွက္ခမူချောင်၊ အတိသုဒ္ဓါရုံ ဆရာတော်ထံပါး တစ်ဝါနေ၍ ဝါကျွတ်မှာ မန္တလေးမြို့ ဝိသုဒ္ဓါရုံကျောင်း တိုက်စည်ရှင် ကျောင်းဆရာတော်ကြီး၏ ခြေတော်ရင်း၌ တစ်ဝါဆိုခဲ့သည်။



ဝါကျွတ်ပြန်သော် မူလအစ ပတ္တပိုင်ကျောင်းတိုက် ဆရာဘုန်းကြီးခြေရင်းမှာ ဝပ်စင်းခိုမှီးလျက် လောကုတ္တရာ စာပေများစွာကို ဆည်းပူးသင်ယူတော်မူခဲ့ပါသည်။

## ဥပသမ္ပဒ မင်္ဂလာအချိန်အခါ

၁၉၄၀ ရှင်နန္ဒောဘာသသည် အသက် ၂၀ ပြည့်ပြီးသောအချိန် အေဒီ ၁၉၄၀ ခု၊ ဇွန်လ ၅ ရက်၊ (၁၃၀၃ ခု နယုန်လဆန်း ၁၂ ရက်) ကြာသပတေးနေ့တွင် မကွေးတိုင်း ဒေသကြီး သာစည်ရွာ၊ ရဟန်းဒါယကာ ဦးဘအေး၊ ရဟန်းအမ ဒေါ်သိန်းတင်တို့၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ ပတ္တပိုင်ကျောင်းတိုက် ဆရာရင်း ဘုန်းတော်ကြီး ဦးဥတ္တရကို ဥပဇ္ဈာယ်ပြု၍ ကာရကသံဃာတော် အမျာအပြားတို့က မြင့်မြတ်သော ရဟန်းအဖြစ်သို့ ချီးမြှောက်တော်မူကြပါသည်။ ရဟန်းဘွဲ့တော်မှာ ရှင်နန္ဒောဘာသပင် ဖြစ်ပါသည်။

## ပညာဆည်းကပ်ဆရာမြတ်

၁၉၄၇ အေဒီ ၁၉၄၇ ခု (၁၃၀၈) ခုနှစ် ရဟန်း ၅ ဝါ ထိ မိမိဆရာဘုန်းတော်ကြီး ထံတွင် စာပေသင်ယူသည်။

၁၉၄၈ အေဒီ ၁၉၄၈ ခု (၁၃၀၉) ခုနှစ် ၆ ဝါမြောက်၌ ရေစကြိုမြို့နယ် အောက်အိုရွာတွင် တစ်ဝါဆိုခဲ့သည်။

၁၉၄၉ အေဒီ ၁၉၄၉ ခု (၁၃၁၀) ခုနှစ် ၇ ဝါမြောက်တွင် မန္တလေးမြို့၊ ဝိသုဒ္ဓါရုံ ကျောင်းတိုက် စည်ရှင်ဆရာတော်ထံတွင် ပညာသင်ကြားပြန်သည်။ ဝါကျွတ်သော် မိမိဇာတိ ဖူလုံရွာသို့ ပြန်လာသည်။

၁၉၅၀ အေဒီ ၁၉၅၀ ခု (၁၃၁၁) ခုနှစ် ဆားလင်းကြီးမြို့နယ်၊ ပေါင်းဝရွာ၊ ဓမ္မိစ္ဆာ သရကျောင်း ဆရာတော်ဦးသုတအား ကြည်ညိုလေးစား၍ ၈ ဝါတွင် ပေါင်းဝရွာ၌ ဝါ ကပ်တော်မူသည်။

## အရည်ဝါသီတောရပ်မှီ

၁၉၅၀ အေဒီ ၁၉၅၀ ခု (၁၃၁၁) ခုနှစ် (၈) ဝါမြောက်သော် စိတ်အံကြံတော် အဓိဋ္ဌာန်မှန်း၍ ပြည်နိဗ္ဗာန် ချမ်းသာရစေရန် တောရဆောက်တည်လိုသော ဆန္ဒတော် ပြင်းပြလာသည်ကို သီတင်းသုံးဖော် ဦးသံဝရ၏ ခမည်းတော်ကြီး ဦးအောင်ညွန့်၏ လိုက်ပါပို့ဆောင်မှုဖြင့် ဆားလင်းကြီးမြို့နှင့် နှစ်မိုင်ခန့်ဝေးကွာသည့် ချင်းတွင်းမြစ် ကမ်းအနောက်ဘက်တွင် ရှုက္ခမူလိကဓူတင်ကို ဆောက်တည်ကျင့်သုံးတော်မူပါသည်။

## မဟာညောင်ပင်အိုင်တောရမည်ခေါ်

ဆရာတော် ဦးနန္ဒောဘာသ ပထမစတင် ရောက်သည့်နေရာတွင် စမ်းရေအိုင် တစ်အိုင်နှင့် ညောင်ပင်တစ်ပင် ရှိပါသည်။ ထိုရေအိုင်နှင့် ညောင်ပင်ကို အစွဲပြုလျက် 'မဟာညောင်ပင်အိုင်တောရ' အမည်ထင်ပေါ် ခေါ်တွင်ကြပေသည်။

တောရဆောက်တည် တောရပ်မှီကြကုန်သော ဘုန်းကြီးတို့၏ ကျင့်စဉ်အတိုင်း ယူဆောင်မြဲ



တိစီဝရိတ်သက်န်း၊ သပိတ်၊ ရေစစ်၊ ထိုင်စရာ သားရေနွယ် တစ်ခုသာပါသည်။ မန်ကျည်းပင်အောက် မြေပြင်ဝယ် သားရေနွယ်ကိုခင်းကာ ပထမနေ့တွင် ဘာဝနာကမ္မဋ္ဌာန်းစီးဖြန်းလျက် မှတ်လိုက်၊ အိပ်လိုက်ဖြင့် မိုးအရုဏ်ကျင်းလျက် လင်းခဲ့ရသည်။ နံနက်တွင် ပတ်ဝန်းကျင် ဂေါစရဂ်ရွာသို့ ဆွမ်းခံဝင်သည်။ ဆွမ်းခံပြန်လျှင် မူလမန်ကျည်းပင်ရင်းတွင် ဆွမ်းဘုဉ်းပေးတော်မူသည်။

ဆွမ်းခံရာတွင် ပင့်ဖိတ်သော ဆွမ်းကို မသာယာ၊ ခံဆွမ်းဖြင့်သာ မျှတသော ပိဏ္ဍပါတိကဓူတင်ကို ဆောက်တည်တော်မူပါသည်။ ထိုနေ့ နေ့ခင်းရောက်သောအခါ မူလပို့ဆောင်ပေးသော ပေါင်းဝရွာမှ ဦးအောင်ညွန့်နှင့် အဖော်များရောက်ရှိလာသည်။ အနီးရှိ သစ်ပင် ဝါးပင်တို့ကို ခုတ်ပယ်၍ မန်ကျည်းပင်ရင်းမှာ ထန်းလက်ကာ မိုးသော တစ်ဖက်ရပ် ကျောင်းငယ်ဆောက်ပြီးလျှင် ကျောင်းအဖြစ် အလှူခံတော်မူပါဘုရားဟု ဆရာတော်အား လျှုဒါန်းပြီးပေါင်းဝရွာသို့ ပြန်ကြလေသည်။

## မုံရွာမိုးညှင်းဆရာတော်ဘုရားထံ တရားနာခဲ့ခြင်း

ညောင်ပင်အိုင်ဆရာတော်ကြီးသည် ရဟန်းဝါ ၉ ဝါအရတွင် မုံရွာမြို့ မိုးညှင်း သမ္ဗုဒ္ဓေဆရာတော်ကြီး ဟောကြားသောတရားကို ၇ ရက်တိုင်တိုင် ကြားနာခဲ့ရသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ အောင်ခိုင်လင်း၊ စာ ၄၆ )

## မုံရွာမိုးညှင်းမှ ဗောဓိပင်များ ပင့်ဆောင်ခဲ့ခြင်း

မိုးညှင်းတောရမှ ပြန်အလာတွင် ဗောဓိပင်နှစ်ပင်ကို အဓိဋ္ဌာန်ဖြင့် ပင့်ဆောင်ခဲ့သည်။ တစ်ပင်ကို ဝက်လူးကျောင်းတွင် စိုက်ခဲ့၏။ ကျန်တစ်ပင်ကို ညောင်ပင်အိုင်တောရတွင် အဓိဋ္ဌာန်ပြု၍ စိုက်ခဲ့၏။

ထိုညောင်ပင် စိုက်သည်ကို အကြောင်းပြု၍ မိုးညှင်းဆရာတော်ဘုရားက ဤညောင်ပင်အိုင်နေရာမှ ဗောဓိပင်ပေါက်သလို တစ်နေ့ကျရင် ထူးထူးခြားခြား စည်ကားလာလိမ့်မည်ဟု အမိန့်ရှိကြောင်း သိရပါသည်။

(ကျမ်းကိုး၊ အောင်ခိုင်လင်း၊ စာ ၄၇ )

၁၉၅၁-၅၄ ၁၉၅၁-၅၄ ခု(၁၃၁၂ - ၁၅) ခုနှစ် ၉ ဝါမှ ၁၂ ဝါအထိ ၄ ဝါ တိုင်တိုင် ဆက်လက်၍ သီတင်းသုံး နေထိုင်နိုင်ခဲ့ပါသည်။

၁၉၅၄ အေဒီ ၁၉၅၄ ခု (၁၃၁၅)ခုနှစ် ၁၂ ဝါ ရောက်သောအခါ တစ်ဝမ်းကွဲ နောင်တော်ဖြစ်သော ဦးသုစိတ္တ ရောက်ရှိလာပြီး ဝါကပ်ခဲ့သည်။ ၁၂ ဝါကျွတ်သော် နောင်တော်၏ ခေါ်ဆောင်မှုဖြင့် ရှင်မတောင် တောင်ခြေ ဘောင်ပဲ့တန်းရွာသို့ ရောက်ခဲ့သည်။

၁၉၅၅-၅၆ ဘောင်ပဲ့တန်းရွာ ကျောက်ချောင်ဂူ၌ အေဒီ ၁၉၅၅ - ၅၆ ခု (၁၃၁၆-၁၇) ၁၃ ဝါမှ ၁၄ ဝါအထိ အရညဝါသီ တောမှီအဖြစ် တရားကျင့်ကြံပွားများ ဆောက်တည်တော်မူခဲ့ပေသည်။

## ရဟန္တာ စလင်းကန်လယ် ဆရာတော်ဘုရားထံ နည်းခံခြင်း

ညောင်ပင်အိုင်တောရ ဆရာတော်ရှင်နန္ဒာဘာသသည် ဝါကျွတ်ကာလတွင် သီလ၊



သမာဓိ၊ ပညာလွန်စွာပြည့်စုံသော ရဟန္တာဟုထင်ပေါ်ကျော်ကြား၊ မကွေးတိုင်းဒေသကြီး စလင်းမြို့နယ် ကန်လယ်ဆရာတော်ဘုရားကြီးထံတွင် နည်းနာနယ၊ ဓမ္မသဘော ဩဝါဒခံမိန့်ခွန်းကို နာခံလိုသည့်ဆန္ဒကြောင့် ခြေတော်ရင်းသို့ ရောက်လာကြကြောင်း လျှောက်ထားကြလေသည်။

ထိုအခါ ဆရာတော်ဘုရားသည် နောင်ညီနှစ်ပါး၏ လျှောက်ထားသံစကားတို့ ကြားသောအခါ 'ဤညီနောင် နှစ်ပါးကား လောကုတ္တရာစခန်း ထွက်ရပ်လမ်းကို တကယ်တမ်း လိုလားကြသော ပါရမီရှင်ပုဂ္ဂိုလ်များ ဖြစ်တန်ရာသည်'ဟု ယူဆတော်မူပြီးလျှင် နောင်ညီနှစ်ပါးတို့အား သုံးလတိုင်တိုင်လျှောင်း၊ ထိုင်၊ ရပ်၊ သွား လေးပါးသော ဣရိယာပုတ် မဆုတ်မနစ် စိစစ်ဝေဖန်၍ သတိပဋ္ဌာန်လေးပါးမြတ်တရားကို ထူးခြားစွာ ပြသတော်မူသည်။

ဤသို့နည်းယူ မှတ်သားရသဖြင့် ကြီးမားသော အကျိုးတရားများ ရရှိခံစားခဲ့ရသည်။ ထိုမှတစ်ဖန် နည်းနာခံ ကျင့်ကြံပွားများ၍ ဆရာတော်ဘုရားကြီးထံမှ ဖူလုံရွာဦး ပတ္တပိုင်ကျောင်းသို့ ပြန်ကြွတော်မူခဲ့ပါသည်။

ဖူလုံရွာ၊ ပတ္တပိုင်ကျောင်းသို့ ရောက်သောအခါ နောင်တော် ဦးသုစိတ္တသည် (၉၆)ဖြာ ဝေဒနာ ကပ်ရောက်၍ ကျန်းမာရေးချို့တဲ့ပြီးလျှင် မရဏနိုင်ငံသို့ လိုက်ပါ၍ လွန်ခဲ့သောကြောင့် နောင်တော် ဦးသုစိတ္တ၏ ရုပ်ကြွင်းကို ဖုတ်ကြည်းသင်္ဂြိုဟ်ခဲ့ပါသည်။

## ကန္နီ ရွှေသိမ်တောင်တောရ ဆရာတော်ဘုရားကြီးထံ နည်းနာခံခြင်း

ထိုကိစ္စပြီးသောအခါ မုံရွာမြို့၏ အထက်ချင်းတွင်းမြစ်ညာ ကန္နီမြို့၊ ရွှေသိမ်တောင်တောရ ဆရာတော်ကြီးထံ ဆည်းကပ်၍ ပဋိပတ်လမ်းအခန်းအခန်းကို ဉာဏ်စွမ်း၊ ဝီရိယစွမ်းတို့ဖြင့် ၅ လတာ ကြာမြင့်သည်အထိ ကြိုးပမ်းအားထုတ်ခဲ့ပါသည်။

## ညောင်ပင်အိုင်တောရ အေးချမ်းလှ

ဤသို့ အပတ်တကုတ် အားထုတ်ကျင့်ဆောင်ပြီးလျှင် မူလပထမ တည်ထောင်ရင်းဖြစ်သော တောရဂနိုင် ညောင်ပင်အိုင် ရိပ်ဝှမ်းသို့ ကြွမြန်းသီတင်းသုံးတော်မူခဲ့ပါသည်။

၁၉၅၄ ဤသို့ ဒုတိယအကြိမ်ရောက် သီတင်းသုံးတော်မူချိန်တွင် ဦးနန္ဒောဘာသ အရှင်သူမြတ်သည် ရဟန်းသိက္ခာဝါ ၁၅ ဝါ အဆင်းတင့်တယ် ရဟန်းပျို အရွယ်မျှသာ ရှိပေသည်။ ၁၃၁၈ ခုနှစ်က ဖြစ်ပါသည်။

## ဝစီပိတ် ၁၁ နှစ်

သို့ပင်ဖြစ်သော်လည်း အရည်ဝါသီတောမှီ ပုဂ္ဂိုလ်ဖြစ်လာရကား၊ တောရပ်မြိုင်ခွင်ဝယ် ခုတင်တစ်ဆယ့်သုံးပါးတို့တွင် အချိန်ကာလအလိုက် မပြတ်ဆောက်တည်လျက် ဝစီနှုတ်မြွက် သံမထွက်စေရဘဲ (ဝစီပိတ်) တစ်ဆယ့်တစ်နှစ်မျှ ကာယမနဖြင့်သာ မျှတတော်မူပြီးလျှင် ကျင့်ကြံပွားများအားထုတ်တော်မူခဲ့ပေသည်။

ရဟန်းသိက္ခာဝါ ၁၅ ဝါမှစ၍ သက်တော် ၇၀၊ ဝါတော် ၅၀ ပြည့်သည်အထိ ဤညောင်ပင်အိုင်တောရ ကျောင်းသခ်မ်း၌ သီတင်းသုံးတော်မူလျက်ရှိပေသည်။



## တောင်တန်းသာသနာပြု ဦးဥတ္တမသာရ၏မေတ္တာတော်

ညောင်ပင်အိုင်တောရတွင် အကြီးကျယ်ဆုံးသော စေတီတစ်ဆူရှိ၏။ ဉာဏ်တော် ၁၀၈ ပေ မြင့်၏။ ကုန်ကျငွေ ၁၀၈ သိန်း ရှိ၏။ တောင်တန်း သာသနာပြု ဆရာတော်ကြီး ဦးဥတ္တမသာရ ကိုယ်တော်တိုင် ကြွရောက်မေတ္တာပို့ပေးသော နေရာတွင် တည်ဆောက်ခြင်းဖြစ်၏။

(ကျမ်းကိုး၊ အောင်ခိုင်လင်း၊ စာ ၄၈ )

**ဆရာတော်ကြီးသည် အိပ်စက်လဲလျောင်းခြင်းမပြုဘဲ ထိုင်ခြင်း၊ ရပ်ခြင်း၊ စင်္ကြံလျှောက်ခြင်းတို့ဖြင့် တရားနှလုံးသွင်းရသော နေသဇ္ဇိကင်္ဂကို နှစ်ပေါင်း ၄၀ နီးပါးမျှ ဆောက်တည်ကျင့်သုံးခဲ့သည်ဟု သိရပါသည်။**

(ကျမ်းကိုး၊ မြတ်မင်္ဂလာ စာ ၂)

၁၉၉၆ ဆရာတော်ကြီးအား နိုင်ငံတော်အစိုးရက ၁၉၉၆ ခုနှစ်တွင် အဂ္ဂမဟာ သဒ္ဓမ္မဇောတိကဓဇ ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းခဲ့ပါသည်။

(ကျမ်းကိုး၊ မြတ်မင်္ဂလာ စာ ၂)

၂၀၀၃ ညောင်ပင်အိုင်ဆရာတော်ကြီး အရှင်နန္ဒောဘာသသည် ၂၀၀၃ ခုနှစ်၊ အောက်တိုဘာလ ၂၀ ရက်၊ တနင်္လာနေ့၊ ၁၃၆၅ ခု၊ သီတင်းကျွတ်လပြည့်ကျော် ၁၀ ရက်နေ့တွင် ပြင်ဦးလွင်မြို့၊ ညောင်ပင်အိုင်တောရ ကျောင်းခွဲတွင် သီတင်းသုံးလျက်ရှိစဉ် တစ်ဘဝတစ်ခန္ဓာကို သိမ်းတော်မူခဲ့ကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ညောင်ပင်အိုင်တောရ ဆရာတော်ဘုရားကြီးထံမှ ခွင့်ပြုချက်ကို ရယူလျက် ဆရာတော်ဘုရားကြီး သက်တော် ၇၀ ပြည့်တွင် ရေးသားပူဇော်ထားသည့် ကျောက်စာကို မှီငြမ်းကိုးကား ရေးသားခဲ့သော သာသနာပြု စာရေးဆရာ မောင်ရေချမ်း (မြောင်) ၏ စာကို ဖတ်ရ၍ အတိအကျ သိရခြင်းဖြစ်ပါသည်။ စာပြု ဆရာမောင်ရေချမ်း (မြောင်)ကို အထူးကျေးဇူးတင်မိပါသည်။)

(ကျမ်းကိုး၊ အောင်ခိုင်လင်း၊ ညောင်ပင်အိုင်တောရမှ ထူးခြားသော နေရာများ၊ နဂ္ဂတ္တရောင်ခြည်၊ ၁၉၉၇ ခု၊ ဇူလိုင်လ၊ အမှတ် ၁၃၇ စာ ၄၅ - ၄၈)

(ကျမ်းကိုး၊ အဂ္ဂမဟာသဒ္ဓမ္မ ဇောတိကဓဇ၊ ဘဒ္ဒန္တနန္ဒောဘာသ ညောင်ပင်အိုင်ဆရာတော်ကြီး၏ ဩဝါဒ၊ မြတ်မင်္ဂလာ၊ ၁၉၉၉ ခု၊ ဧပြီလ အတွဲ ၁၄၊ အမှတ် ၁၀၊ စာ ၁)

(ကျမ်းကိုး၊ တင်ထွန်းအေး (အဝေးသင် တက္ကသိုလ်)၊ ညောင်ပင်အိုင်ဆရာတော်ကြီး၏ အောင်မြင်စေကြောင်း နည်းလမ်းကောင်းနှင့် ဂါထာတော်၊ နဂ္ဂတ္တရောင်ခြည်၊ ၂၀၀၂ ခု၊ ဇူလိုင်လ၊ အမှတ် ၁၉၂ )

(ကျမ်းကိုး၊ စကြာကောင်းစံ၊ အမှတ်မထင် ညောင်ပင်အိုင်၊ ဂန္ဓိရ မဂ္ဂဇင်း၊ စာ ၂၄ - ၂၇) တို့ကိုလည်း အကျယ်သိလိုလျှင် ရှာဖွေဖတ်ရှုကြပါ။

ချောင်းဦးမြို့နယ် အမြင့်မြို့ဟောင်းတွင် ရုပ်ကလာပ်တော် ဖူးမြင်နိုင်သော

အမြင့် ရုပ်သစ်ကျောင်းဆရာတော်

# ဘဒ္ဒန္တ နန္ဒာသိရိ

အေဒီ ၁၉၂၁ - ၂၀၀၄ ( ၁၂၈၃ - ၁၃၆၅ )





ဆရာတော်မှာ စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာခရိုင်၊ ချောင်းဦးမြို့နယ်၊ အမြင့်မြို့သား ဇာတိဖြစ်ကြောင်း သိရပါသည်။ ပျံလွန်တော်မူပြီးနောက် ဆေးထိုးခြင်း၊ ပြုပြင်စီမံခြင်း လုံးဝမရှိကြောင်း ချောင်းဦးမြို့နယ် ဆရာဝန်နှင့် အမြင့်တိုက်မြို့နယ် ဆရာဝန်များက လာရောက် စမ်းသပ်စစ်ဆေးပြီးဖြစ်ကြောင်း၊ ပျံလွန်တော်မူပြီး နောက် တစ်လကျော်ကြာသည့်အထိ ရုပ်ကလာပ်တော် မပျက်မစီးဘဲ တည်နေသည့်အတွက် ကျော်ကြား လာခြင်းဖြစ်ကြောင်း သိရပါသည်။

၁၉၂၁ ဆရာတော်လောင်းလျာကို ၁၂၈၃ ခု၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၂ ရက်၊ စနေနေ့ နံနက် ၅ နာရီတွင် မွေးဖွားခဲ့ပါသည်။

မိဘများမှာ အမြင့်မြို့ ကျောက်စာရပ်နေ ဦးဖိုးမြ ဒေါ်ရွှေပုတို့ ဖြစ်ပါသည်။ မွေးချင်း နှစ်ယောက်ရှိကြောင်း သိရပါသည်။ ဆရာတော်လောင်းလျာမှာ အကြီးဖြစ်၏။ ငယ်မည် မောင်ထွန်းရှုန်ဖြစ်၏။ ညီဖြစ်သူမှာ မောင်ထွန်းစံ ဆိုသူဖြစ်၏။

၁၉၂၆ ၁၂၈၈ ခုနှစ်တွင် မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟဖြင့် နန်းဦးကျောင်းဆရာတော်အား ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေ ပြုခဲ့ပါသည်။

နန်းဦးအစိုးရမူလတန်း ပါဠိကျောင်း၌ လေးတန်းအောင်သည်အထိ ပညာ သင်ခဲ့သည်။ ဆက်လက်၍ နန်းဦးဆရာတော် ဦးကောဝိဒထံ ပညာသင်ခဲ့ရာ အစိုးရ ပါဠိပထမ ပြန်(အငယ်တန်း) စာမေးပွဲအောင်မြင်ခဲ့သည်။

၁၉၃၉ ၁၃၀၀ ခုနှစ်တွင် မုံရွာမြို့ မဟာလယ်တီကျောင်းတိုက်၊ လယ်ပေါ်ကျောင်းဆရာတော် ဦးပုညထံတွင် အစိုးရ ပထမပြန် အလယ်တန်းအောင်သည်အထိ ပညာသင်ခဲ့သည်။

၁၉၄၀ ၁၃၀၂ ခုနှစ်တွင် အမရပူရမြို့ တူးမောင်းတိုက် ဆရာတော် ဦးနန္ဒိယထံတွင် ပထမကြီး စာပေများ ဆက်လက်သင်ကြားခဲ့သည်။

၉၄၁ ၁၃၀၃ ခုနှစ် တန်ဆောင်မုန်းလဆန်း ၇ ရက်နေ့တွင် အမြင့်မြို့နေ ဦးဘိုးခန်း ဒေါ်သော့(သား)၊ ဦးသန်းဖေ၊ ဦးတင်ဦး (သမီး)၊ ဒေါ်မမကြီး၊ ဒေါ်ကြွယ်ကြွယ်တို့၏ ပစ္စယာ နုဂ္ဂဟဖြင့် ဘုံပျံကျောင်းဆရာတော် ဦးရာဇိကအား ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းဘဝကို ရောက်ရှိခဲ့သည်။ ပါဠိပထမပြန် အကြီးတန်းနှင့် သကျသီဟ စာမေးပွဲများ ပြင်ဆင်နေစဉ် ဒုတိယကမ္ဘာစစ်ကြီးဖြစ်လာ၍ အမြင့်မြို့သို့ ပြန်ကြွခဲ့သည်ဟု သိရပါသည်။ နန်းဦးဆရာတော် ဦးကောဝိဒကိုယ်တိုင် အမရပူရသို့ လာရောက်ခေါ်ဆိုခြင်းဖြစ်ကြောင်း သိရပါသည်။

၁၉၄၂ ၁၃၀၄ ခုနှစ်တွင် ရပ်သစ်ကျောင်းတိုက်၏ နာယကအဖြစ် စတင်သီတင်းသုံးခဲ့သည်။

၁၉၆၁ ဆရာတော်သည် ဝါတော် ၂၀၊ ၁၃၂၃ ခုနှစ်မှ စ၍ ၂ နှစ်ခန့် ၁၃၂၅ -၂၆ အထိ သုသာန်စုတင်ဆောင်ခဲ့သည်ဟု သိရှိရပါသည်။

၁၉၈၁ ၁၃၄၃ ခုနှစ်မှ ၁၃၄၇ ခုနှစ်အထိ မြို့နယ် ဝိနည်းဓိုရ်ဆရာတော်အဖြစ် ထမ်းဆောင်ခဲ့ ပါသည်။

၁၉၈၅ ၁၃၄၇ ခုမှ ၁၃၆၅ ခုနှစ်အထိ ကျေးရွာအုပ်စု သံဃာ့နာယက ဥက္ကဋ္ဌအဖြစ် ဆောင် ရွက်ခဲ့ပါသည်။ အမြင့်မြို့ ရွှေကြီးရစ်ဘုရားနှင့် မံဘုရားတို့၏ နာယကအဖြစ်လည်း ဆောင်ရွက် ခဲ့ပါသည်။

၂၀၀၄ အေဒီ ၂၀၀၄ ခု၊ ဖေဖော်ဝါရီ ၂၃ ရက်၊ (၁၃၆၅ ခု တပေါင်းလဆန်း ၄ ရက်) မွန်းလွဲ ၂ နာရီ ၄၅ မိနစ်အချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။ ထိုအခါ သက်တော် ၈၃ နှစ်၊ ဝါတော် ၆၃ ဝါ ရှိပြီဖြစ်ပါသည်။

(ကျမ်းကိုး။ ကျော်စိုး မုံရွာ တိုင်းရင်းဆေး၊ နက္ခတ္တရောင်ခြည်၊ စာ ၂၉ - ၃၀)

ရုပ်ကလာပ်တော်ကို ယနေ့တိုင် ဖူးမြော်နိုင်သေးကြောင်း သိရှိရပါသည်။

ရုပ်ကလာပ်တော်မှ ကြွင်းကျန်တော်မူသော ဦးခေါင်းတော်၊ မျက်လုံးတော်၊ နှလုံးတော်နှင့်တကွ
အရိုးတော်ဓာတ်တော်တို့ကို ယနေ့တိုင် ဖူးမြော်နိုင်သေးသော
တစ်ဘဝသာသနာ ကျမ်းပြုဆရာတော်

# ဦးဃောသိတ

အေဒီ ၁၉၃၀ - ၂၀၀၇ (၁၂၉၂ - ၁၃၆၈)



တော်ဝင်ဦး



တစ်ဘဝ သာသနာကျမ်းပြုဆရာတော်ဟု ကျော်ကြားတော်မူသော ဘဒ္ဒန္တယောသိတ ကိုယ်တော်မြတ်ကြီးသည် သက်တော် ၇၇၊ သိက္ခာတော် ၅၇ ဝါ အရတွင် ဘဝနတ်ထံပျံလွန်တော်မူသောအခါ ထူးခြားသောဖြစ်ရပ်ဆန်းများနှင့်အတူ အံ့ဩကြည်ညိုရပါသည်။ ရုပ်ကလာပ်တော်မှ ကြွင်းကျန်တော်မူသော ဦးခေါင်းတော်၊ မျက်လုံးတော်၊ နှလုံးတော်တို့နှင့်တကွ အရိုးတော်ဓာတ်တို့ကို အများမျက်မြင် ဖူးတွေ့ကြရပါသည်။

ဆရာတော် ဦးယောသိတမှာ ရန်ကုန်တိုင်းဒေသကြီး ၊ မရမ်းကုန်းမြို့နယ်၊ အမှတ် ၈ ရပ်ကွက်၊ ရေကူးဘူတာရုံလမ်း၊ သံဃာ့တက္ကသိုလ် ကျောင်းတိုက်၊ နာယကဆရာတော်ကြီးဖြစ်၏။ သာသနာ့ဓဇ သိရီပဝရဓမ္မာစရိယ၊ အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ၊ ဘွဲ့တံဆိပ်တော်များ ဆက်ကပ်လှူဒါန်းခြင်း ခံတော်မူရသော ရဟန်းထူးရဟန်းမြတ် လည်းဖြစ်၏။ ရန်ကုန်တိုင်း၊ တိုင်းသံဃာ့ဝန်ဆောင် တစ်ဘဝသာသနာကျမ်းပြု မိုးကုတ် ဝိပဿနာအဖွဲ့ချုပ် နာယကဆရာတော်ကြီးလည်း ဖြစ်၏။

၁၉၃၀ ဆရာတော်လောင်းလျာကို အေဒီ ၁၉၃၀ ခု၊ မေလ ၅ ရက်၊ (၁၂၉၂ ခုနှစ်၊ ကဆုန်လဆန်း ၉ ရက်) တနင်္လာနေ့၌ ဖွားတော်မူ၏။ တောင်တွင်းကြီးမြို့၊ မြို့သစ်မြို့နယ်၊ ဖိုကြီးရွာဇာတိဖြစ်၏။ ဖခင်မှာ ဦးဖိုးချိုဖြစ်၏။ အမိမှာ ဒေါ်ဆည်မိဖြစ်၏။

ငယ်စဉ်က အခြေခံပညာများကို ရွာဦးကျောင်းဆရာတော် ဦးနန္ဒိယထံတော်တွင်လည်းကောင်း၊ ဆရာတော်ဦးဝိမလထံတော်တွင်လည်းကောင်း၊ နောင်တော်အရင်းဖြစ်သော ဦးသုမနထံတော်တွင်လည်းကောင်း သင်ကြားခဲ့သည်ဟု သိရပါသည်။

၁၉၄၉ အေဒီ ၁၉၄၉ ခု (၁၃၁၀ ပြည့်နှစ်)တွင် သာမဏေ ဖြစ်သော ရှင်ယောသိတသည် မဟာဂန္ဓာရုံသို့ ရောက်ရှိလာကြောင်း သိရှိရပါသည်၊ တောင်မြို့သို့ ပြောင်းရွှေ့လာသော နောင်တော်ဦးသုမနသည် ပဌာန်းဆိုရန်အတွက် တောင်မြို့သို့ ရောက်ရှိလာကြောင်း၊ တပါတည်းမှာ ရှင်ယောသိတလည်း မဟာဂန္ဓာရုံသို့ ရောက်ရှိလာကြောင်း သိရှိရပါသည်၊ မဟာဂန္ဓာရုံဆရာတော်ထံတွင် ၁၂ နှစ်တာ ကာလပတ်လုံး အရိပ်တော် ခိုလှုံခဲ့ကြောင်း သိရပါသည်။

၁၉၅၅ အေဒီ ၁၉၅၅ ခု (၁၃၁၇ ခုနှစ်) တွင် သာသနဓဇ သိရီပဝရ ဘွဲ့တံဆိပ်တော် ရရှိခဲ့ကြောင်း၊ ၎င်းနောက် မဟာဂန္ဓာရုံ စာချဘုန်းတော်ကြီး ဖြစ်လာကြောင်း သိရှိရပါသည်။

၎င်းနောက် ရန်ကုန်မြို့ကမ္ဘာအေးကုန်းမြေ သံဃာ့တက္ကသိုလ်တွင် သင်တန်းများ တက်ရောက်ခဲ့ကြောင်းသိရပါသည်၊ သံဃာ့တက္ကသိုလ်တွင် ၅ နှစ် ပညာဆည်းပူးခဲ့ကြောင်း ကမ္ဘာ့ဗုဒ္ဓတက္ကသိုလ်တွင် ၂ နှစ် ပညာဆည်းပူးခဲ့ကြောင်းနှင့် သင်တန်းအောင်၍ ဗုဒ္ဓဒေသနာ ဒီပလိုမာ လက်မှတ်လည်း ရရှိခဲ့ကြောင်း သိရှိရပါသည်။

၎င်းနောက်တွင်ကား သာသနာပြု သင်တန်းများကို ပို့ချခဲ့ကြောင်း သိရပါသည်၊ ရန်ကုန်မြို့ ကမ္ဘာအေးရေကူးရပ်တွင် တည်ထောင်ထားသော သံဃာ့တက္ကသိုလ်တွင် ပညာရေးတာဝန်များကို ထမ်းဆောင်ရင်း သာသနာပြုခဲ့သည်ဟု သိရပါသည်။

ဤသို့အားဖြင့် နှစ်ပေါင်း ၃၀ ခန့်မျှလောက် ပရိယတ္တိနယ်ပယ်တွင် ကျင်လည်ကျက်စားခဲ့ကြောင်း သိရှိရပါသည်။

၁၉၈၅ ၎င်းနောက် အသက်အရွယ် အတော်ကလေး ထောက်လာသောအခါ ပဋိပတ်နယ်ပယ်သို့ စိတ်ညွတ်လာသည်ဟု သိရပါသည်၊ သို့နှင့် ရန်ကုန်မြို့ နတ်မောက်လမ်းရှိ မိုးကုတ်ဝိပဿနာအဖွဲ့ချုပ်သို့ ရောက်လာသည်ဟု သိရပါသည်၊ ထိုအခါ ၁၉၈၅ ခုနှစ် ဖြစ်သည်ဟု ဆိုပါသည်။



မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဥပနိဿယအတိုင်း သစ္စာလေးပါးကို အခြေခံထား၍ ခန္ဓာအရှိ ဉာဏ်အသိဖြင့် သစ္စာဆိုက်အောင် ဟောကြားတော်မူခဲ့ကြောင်း သိခွင့်ရခဲ့ပါသည်။

ဆရာတော်ဦးဃောသိတသည် ရန်ကုန်မြို့ မိုးကုတ်ဝိပဿနာဓမ္မရိပ်သာအဖွဲ့ချုပ်ကြီး၏ ကမ္မဋ္ဌာနာစရိယဆရာတော်အဖြစ် ဆောင်ရွက်တော်မူသည်ဟုသိရှိရပါသည်။

၂၀၀၇ အေဒီ ၂၀၀၇ ခု၊ ဖေဖော်ဝါရီလ ၇ ရက်၊ ၁၃၆၈ ခု၊ တပို့တွဲလပြည့်ကျော် ၆ ရက် ဗုဒ္ဓဟူးနေ့ နံနက် ၇ နာရီ ၂၀ မိနစ် တွင် ဘဝနတ်ထံ ပျံလွန်တော်မူကြောင်း သိရပါသည်။ ကြေးမုံသတင်းစာတွင် အောက်ပါအတိုင်း ဖတ်ရှုရပါသည်။

**ဘဝနတ်ထံပျံလွန်တော်မူခြင်း**

ဘဒ္ဒန္တဃောသိတ
(သာသနဒ္ဓဇ သိရီပဝရဓမ္မာစရိယ၊ အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ)
(သိက္ခာတော် (၅၇)၊ သက်တော် ၇၇ နှစ်၊ တစ်ဘဝသာသနာကျမ်းပြု၊ မိုးကုတ်ဝိပဿနာအဖွဲ့ချုပ် နာယက)

ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ် ၈ ရပ်ကွက်၊ ရေကူးဘူတာရုံလမ်း၊ သံဃာ့တက္ကသိုလ် ကျောင်းတိုက်၊ နာယကဆရာတော်ဘဒ္ဒန္တဃောသိတ (သာသနဒ္ဓဇ သိရီပဝရဓမ္မာစရိယ၊ အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ) ရန်ကုန်တိုင်း၊ (ပ+ဒု)အကြိမ်၊ တိုင်းသံဃာ့ဝန်ဆောင် တစ်ဘဝသာသနာပြု ကျမ်းပြု၊ မိုးကုတ်ဝိပဿနာအဖွဲ့ချုပ် နာယကဆရာတော်သည် (၁၃၆၈ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၆ ရက်၊) ၇-၂-၂၀၀၇ (ဗုဒ္ဓဟူးနေ့) နံနက် ၇ း ၂၀ နာရီတွင် ဘဝနတ်ထံပျံလွန်တော်မူပါသည်။

ဆရာတော်၏ ဥတုဇရုပ်ကလာပ်တော်ကို (၁၃၆၈ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၁၂ ရက်) ၁၃-၂-၂၀၀၇ (အင်္ဂါနေ့) မွန်းလွဲ ၁ နာရီတွင် သံဃာ့တက္ကသိုလ်ကျောင်းတိုက်၌ အန္တိမဈာပန သာဓုကိဠနပူဇာသဘင် အခမ်းအနားကျင်းပပြီးလျှင် ရေဝေးသုသာန်သို့ ပင့်ဆောင်၍ အန္တိမအဂ္ဂိဈာပနမှု ပြုလုပ်ပူဇော်မည်ဖြစ်ပါကြောင်း ရပ်ဝေးရပ်နီးနေ တပည့်ဒါယကာ ဒါယိကာမ အပေါင်းတို့အား အကြောင်းကြား သိစေအပ်ပါသည်။

(ကျမ်းကိုး၊ ကြေးမုံသတင်းစာ၊ ၁၂-၂-၂၀၀၇၊ စာ ၁၉ )

ဟူ၍ ဖတ်ရှုရပါသည်။

ဆရာတော်၏ ဥတုဇရုပ်ကလာပ်တော်ကို အေဒီ ၂၀၀၇ ခု၊ ဖေဖော်ဝါရီ ၁၃ ရက်၊ (၁၃၆၈ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၁၂ ရက်) အင်္ဂါနေ့ မွန်းလွဲ ၁ နာရီတွင် သံဃာ့တက္ကသိုလ်ကျောင်းတိုက်၌ အန္တိမဈာပန အခမ်းအနား ကျင်းပပြုလုပ်ပြီး ရေဝေးသုသာန်သို့ ပင့်ဆောင်လျက် မီးသဂြိုဟ်တော်မူခဲ့ပါသည်။ ထိုအခါ ထူးခြားသော ဦးခေါင်းခွံ၊ မျက်လုံးတော်၊ နှလုံးတော်နှင့်တကွ အရိုးတော်ဓာတ်တော်များ ကြွင်းကျန်တော်မူကြောင်း ကြည်ညိုသိရှိရပါသည်။

(ကျမ်းကိုး၊ တင်အောင်သွင်၊ အကျော်ဒေးယျ ဆရာတော်ကြီးများ၏ ဘဝ ဩဝါဒနှင့် ဖြစ်ရပ်ဆန်းများ။ အမှတ် ၃ ၊ ၂၀၀၄ ခု၊ ဇူလိုင်လ၊ ပထမအကြိမ် ပုံနှိပ်ခြင်း၊ စာ ၁၆၄ - ၁၆၈ ကို ကြည့်ပါ။)

စာတ်တော်များ တဖွားဖွားကျသည့်

အင်းတော်မြို့နယ် မိုးယွှသည်ကြီးတောင်တော် တောရဆရာတော်

# ဦးကုန္ဒဝံသ

အေဒီ ၁၉၄၂ – ၂၀၀၄ (၁၃၀၄–၁၃၆၆)





အသက် ၄၈ နှစ်အရွယ်သို့ ရောက်သောအခါမှ မြင့်မြတ်သော ရဟန်းဘောင်သို့ ဝင်ရောက်ခဲ့ရသော ပုဂ္ဂိုလ်ကြီးဖြစ်ပါသည်။

၁၉၉၀ ထိုစဉ်က သားသမီးလေးဦး ထွန်းကားခဲ့သည်။ သားသမီးများ အရွယ်ရောက်ပြီးနောက်မှ ရဟန်းပြုခြင်းဖြစ်သည်။ ထိုနှစ်သည် အေဒီ ၁၉၉၀ ခု (၁၃၅၂ ခုနှစ်) ဖြစ်လေသည်။

မန်လည်တောင်ကျောင်း စတုတ္ထဆရာတော် ဦးယုဂန္ဓရကို ဥပဇ္ဈာယ်ပြုပြီးလျှင် ပဌမဆရာတော် ဦးဉာဏဝံသကို အနုသာသနာဆရာအဖြစ်ထား၍ မြင့်မြတ်သော ရဟန်းဘောင်သို့ ဝင်ခဲ့ခြင်းဖြစ်ပါသည်။ ဘွဲ့တော်မှာ ဦးကဝိန္ဒဝံသ ဖြစ်ပါသည်။

၁၉၉၃ မန်လည်တောင်ကျောင်းတွင် ရဟန်း ၃ ဝါ ၁၉၉၃ ခု(၁၃၅၅)ခုနှစ်အထိ သီတင်းသုံးခဲ့သည်။ ၎င်းနောက် တရားဓမ္မများ ရှာဖွေရင်း သီတင်းသုံးခဲ့ပါသည်။

၁၉၉၅ ထိုစဉ်ကာလများတွင် ဇန်းမော်မြို့သို့လည်း ရောက်ခဲ့ပါသေးသည်။ ၂ ဝါမျှ သီတင်းသုံးခဲ့ရပါသည်။ နမ္မားကျွန်းပင်သာ၌ သီတင်းသုံးခဲ့ပါသေးသည်။ ၁၉၉၅ ခု (၁၃၅၇) ခုနှစ်အထိ (၂)ဝါမျှ ကြာသည်ဟု သိရပါသည်။

၁၉၉၆ ၎င်းနောက် ကသာမြို့သို့ ရောက်သွားပြန်သည်။ ၁၉၉၆ခု(၁၃၅၈)ခုနှစ်အထိ (၁) ဝါမျှ ကြာခဲ့သည်။ ထိုသို့ လှည့်လည်၍ တရားရှာရင်း သီတင်းသုံးခဲ့သည်။

၁၉၉၇ ၎င်းနောက် မန်လည်တောင်ကျောင်းသို့ ပြန်လည်ရောက်ရှိခဲ့သည်။ ထိုအခါ မန်လည်တောင်ကျောင်းတွင် ၁၉၉၇ ခု ( ၁၃၅၉ ) ခုနှစ်အထိ (၁) ဝါမျှ သီတင်းသုံးခဲ့ပါသည်။

၁၉၉၈ ထို အေဒီ ၁၉၉၈ ခု (၁၃၆၀ ပြည့်နှစ် တပေါင်းလဆန်း ၁၄ ရက်နေ့) တွင် သစ္စာအောင်တော်မူ ဘုရားတောင်ရိုး၌ တောရဆောက်တည် သီတင်းသုံးခဲ့ပါသည်။ ထိုနေရာသည်လည်း မိုးယူဆည်ကြီး တောင်တော်ပင် ဖြစ်ပါသည်။

၂၀၀၀ မိုးယူသည်ကား ဆရာတော်၏ အောင်မြေဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် ထိုမိုးယူတောင်သို့ရောက်ရှိ၍ ၂၀၀၀ ပြည့်နှစ် ( ၁၃၆၂ ) ခုနှစ်အထိ (၂)နှစ်တာကာလမျှ တရားအားထုတ်သောအခါ မိုးယူဆရာတော်သည် ဟိုးလေးတကျော်ကျော် ဖြစ်လာပါသည်။ ကြည်ညိုပူဇော်သူများကလည်း များပြားလာသည်။

မြန်မာလူမျိုး ဗုဒ္ဓဘာသာတို့၏ထုံးစံ တရားရနံ့ကို အလွန်လျှင် အနံ့ခံကောင်းကြသည်ဟုဆိုလျှင် ရတ်တရက်အားဖြင့် မယဉ်ကျေးရာ ရောက်ကောင်း ရောက်နိုင်ပါသည်။ သို့သော်လည်း တကယ့်ကို အမှန် ဖြစ်ပါသည်။ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်များ၏ ကောင်းသတင်းရနံ့ကို ရောက်ရာအရပ်မှာ သတင်းပေး သတင်းယူကြလျက် နေတတ်ကြသော မြန်မာလူမျိုးတို့သည် ထေရဝါဒ ဗုဒ္ဓဘာသာဝင် ဖြစ်ရသည်မှာ အလွန်ကုသိုလ်ထူးကြသည်။ ကံကြီးကြသည်ဟု ဆိုသင့်ပါသည်။

၂၀၀၀ အေဒီ ၂၀၀၀ ပြည့်နှစ် (၁၃၆၂ ခု တပို့လဆန်း ၆ ရက်) တနင်္လာနေ့ နေ့ ၁၂ နာရီ အချိန်ကစ၍ အကျော်တစော ရှိလာသည်ဟု ဆိုပါသည်။ ထို့ကြောင့် ထိုနှစ် ထိုလ ထိုနေ့ ထိုနာရီ ထိုအချိန်သည် မိုးယူဆရာတော်ကြီး တရားထူးတရားမြတ်များရသောအချိန် ဖြစ်မလားဟု အချို့ကလည်း တွေးတောပြောဆိုကြပါသည်။

ဤသို့ဖြင့် နေ့စဉ်မပြတ် ပူဇော်လွန်စည်ကားလာခဲ့ပါသည်။ ထို့ကြောင့်လည်း ဆရာတော်သည် အောင်တော်မူဘုရား၏ တောင်ဘက်သို့ ပြောင်းရွှေ့သွားလေတော့သည်။ ထိုနေရာသည်လည်း မိုးယူဆည်ကြီး အထက်ပိုင်းဖြစ်ပါသည်။ ချောင်းကမ်းပါး၏ အထက်ပိုင်းတွင်ရှိသော နေရာသို့ ပြောင်းရွှေ့ သီတင်းသုံးခြင်းဖြစ်သည်။ ဒုတိယ ကျောင်းသခ်မ်း ဖြစ်သည်ဟု ဆိုရပါတော့မည်။



ဆရာတော်သည် ကိုယ်တော်တိုင် ဆွမ်းခံကြွသည်၊ ရွာများသို့ အလှည့်ကျ ဆွမ်းခံကြွခြင်းဖြင့် ဖူးမြော်သူများကို အဆင်ပြေစေသည်။ ဆရာတော် ဆွမ်းခံကြွသည့် ရွာများမှာ မိုးယူအောက်ကျင်းရွာလည်းပါ၏။ မိုးယူတောင်ပေါ်ကုန်းရွာကလေးလည်းပါ၏။ နောင်ရင်းကျေးကလေးလည်းပါ၏။ အောင်းကုန်းရွာကလေးလည်းပါ၏။ ကျော်ရွာဟူသော ရွာကလေးလည်းပါ၏။ နားနောင်ရွာဟူသော ရွာကလေးလည်းပါ၏။ ဤသို့ဖြင့် ဆရာတော်သည် အလှည့်ကျ ဆွမ်းခံကြွတော်မူပါသည်။ သို့သော်လည်း တစ်ခါတစ်ရံမူကား အင်းတော်မြို့ပေါ်အထိ ဆွမ်းခံကြွသည်ဟုဆိုပါသည်။

## မိုးကုတ်ဆရာတော်ကြီး ဦးဝိမလ၏ ဥပနိဿယအတိုင်း ကျင့်ကြံ

ဆွမ်းခံကြွသည့်အခါမှာလည်း ရောက်ရာအရပ်တွင် ဝိပဿနာတရားများကို ဟောပြောပြသသည်ဟု သိရပါသည်။ မိုးယူဆရာတော်ကြီး ဟောပြသောတရားမှာ ရဟန္တာအရှင်မြတ်ကြီးဖြစ်သော မိုးကုတ်ဆရာတော်ကြီး ဦးဝိမလ၏ ဥပနိဿယအတိုင်းဖြစ်ကြောင်း သိရှိရပါသည်။ ဤသို့ဖြင့် မိုးကုတ်တရားတော်ကြီးကို နာယူကြသော ပရိသတ်တို့မှာ အင်းတော်မြို့ပေါ်တွင် အုန်းအုန်းကျွက်ကျွက်ရှိကြသည်။

၂၀၀၀ ဆရာတော်ကြီးသည် ထိုအေဒီ ၂၀၀၀ ပြည့်နှစ် (၁၃၆၂ ခုနှစ်) ဝါတွင်း ကာလမှစ၍ နေ့တိုင်းညတိုင်း နေ့စဉ်ညစဉ်ပင်လျှင် တရားပြခဲ့သည်ဟု သိရပါသည်။ သို့နှင့် ၂ နှစ်တာကြာသွား၏။

၂၀၀၂ အေဒီ ၂၀၀၂ ခု (၁၃၆၄ ခုနှစ်)သို့ ရောက်သောအခါ မဟာသင်္ကြန်အချိန်ကာလများတွင်၌ပင်လျှင် ၇ ရက် စခန်းများကို စတင်ဖွင့်လှစ်ခဲ့ကြောင်း သိရပါသည်။ ဥပုသ်ရက်များတွင်ကား လေးကြိမ် တရားပြကြောင်း သိရပါသည်။

၂၀၀၃ ထိုနောက် အေဒီ ၂၀၀၃ ခု (၁၃၆၅ ခုနှစ်)သို့ ရောက်သောအခါ တစ်နေ့လျှင် ၂ ကြိမ်သာ တရားဟောတော်မူကြောင်း သိရပါသည်။

၂၀၀၄ အေဒီ ၁၉၉၀ ခု (၁၃၅၂ ခုနှစ်)မှစ၍ ရဟန်းဘဝသို့ ရောက်သဖြင့် အေဒီ ၂၀၀၃ ခု (၁၃၆၅ ခုနှစ်)တွင် ရဟန်းဝါ (၁၃) ဝါမျှသာရှိပါသည်။ သို့သော်လည်း အေဒီ ၂၀၀၄ ခုနှစ် (၁၃၆၆ ခုနှစ်)သို့ ရောက်သောအခါ ဆရာတော်၏ အနေအထားများမှာ သိသိသာသာ ပြောင်းလဲလာကြောင်း တပည့်အရင်းများက ပြောကြားကြပါသည်။

၂၀၀၄ ဆရာတော်ကြီးနောက်ဆုံး ထိုတရားဟောပြောခဲ့သောနေ့မှာ ထိုအေဒီ ၂၀၀၄ ခု၊ (၁၃၆၆ ခု တပို့တွဲလပြည့်နေ့နှင့် လပြည့်ကျော် (၁)ရက်နေ့) ဖြစ်ကြောင်း သိရပါသည်။ ထိုနေ့က မှတဲမှတ်ရရအားဖြင့် ထူးထူးခြားခြား စကားတစ်ခွန်း ဟောကြားခဲ့ပါသည်။

ထိုစကားမှာ ဆရာတော် အမြဲသုံးသောစကားဖြစ်၏။ ထိုစကားထူးမှာ ခြားနားသည် ဟူသော စကားကလေး ဖြစ်ပါသည်။ ထိုနောက်ပိုင်းတွင်ကား အခြေအနေများ ထူးခြားပြောင်းလဲလာပါသည်။

ထိုစဉ်က ယောဂီများတို့သည် ဆရာတော်ကြီးအား အုန်းရေများ ကပ်ကြသည်ဟု ဆိုပါသည်။ သို့သော်လည်း ထိုနေ့က အုန်းသီးကို ခွဲပြီးနောက် အုန်းရေမှာ မကောင်းလှဟု ထင်သဖြင့် ကပ်လှူခြင်း မပြုခဲ့ဟု သိရပါသည်။ ထိုနေ့တွင် ဆရာတော်က -

> ငါ့ကို ကပ်ရင် အုန်းရေတစ်ပိဿာခွဲခန့်ရမှသာ ကပ်ရမည်။ ဒီတပေါင်းလမှာ ဒီထက် လူတွေ နှစ်ဆမက လာလိမ့်ဦးမည်။ စည်ကားလိမ့်ဦးမည်။ ဒီလိုဆိုရင် မင်းတို့ ထမင်းကျွေးနိုင်ကြမလား။ အေး ဒီတပေါင်းလမှာ ငါ တရားမဟောတော့ဘူး။ လူချင်းပဲ ဟောရတော့မယ်ဟူ၍ မိန့်တော်မူသည်ဟု ဆိုပါသည်။ ၎င်းနောက်လည်း



နဂါးကြီး ရေ မချတာ ၃ ရက်ရှိပြီ၊ မင်းတို့လည်း ပြန်ကြပေတော့။ ရေချပြီး နဂါးကြီး အခိုးလွှင့်ဦးမည် စသည်အားဖြင့် အထူးအဆန်းတွေ မိန့်တော်မူပါသည်။

သို့သော်လည်း တပည့်များက ဘာဆိုလိုမှန်းလည်းမသိ၊ ဘာမှလည်း ရိပ်စားမိခဲ့ခြင်းမရှိဟုသိရပါသည်။ နောင်သောအခါမှာ ပြန်လည်စဉ်းစား၍ပြောဆိုကြသည်မှာ ထိုစကားများသည် မိမိခန္ဓာဝန်ချတော့မည့် အကြောင်းတရား နိမိတ်ပုံများတင်စားခြင်း ဖြစ်ကောင်းဖြစ်နိုင်သည်ဟု ပြောဆိုကြပါသည်။

၂၀၀၄ ထို ၁၃၆၆ ခု တပို့တွဲလပြည့်ကျော် ၅ ရက်နေ့တွင် ဆရာတော်သည် မကျန်းမမာဖြစ်ပါသည်။ ဆေးတိုက်သော်လည်း လက်ခံခြင်းမရှိ။

၂၀၀၄ ထို ၁၃၆၆ ခု၊ တပို့တွဲလပြည့်ကျော် ၁၀ ရက် စနေနေ့ ညနေ ၆ နာရီကျော်ကျော်လောက်တွင် တောရဆောက်တည်သည့် ကျောင်း၏ခေါင်မိုးပေါ်မှာ မီးခိုးတန်းကြီးထွက်သွားသည်ကိုမြင်ရကြောင်း မျက်မြင်ပုဂ္ဂိုလ်များက သေချာစွာ ပြောဆိုကြပါသည်။

၂၀၀၄ ထို ၁၃၆၆ ခု၊ တပို့တွဲလပြည့်ကျော် ၁၃ ရက် အင်္ဂါနေ့ သို့ရောက်သောအခါ နံနက် ၉ နာရီ အချိန်လောက်တွင် ဆရာတော်ကြီး မိန့်တော်မူသော စကားကြီးမှာ ငါလွတ်တော့မယ် ဟူ၍ဖြစ်ပါသည်။

တပည့်များက အဓိပ္ပာယ်ကို အသေအချာ မသိကြပါ။ သို့သော်လည်း ထိုနေ့ည ၉ နာရီ အချိန်တွင်ကား အဓိပ္ပာယ် သိကြရပါတော့သည်။ အဘယ်ကြောင့်ဆိုသော် ထိုနေ့ည ၉ နာရီ ၇ မိနစ်တိတိ အချိန်တွင် မိုးယူဆရာတော်ကြီး တစ်ဘဝသံသရာကို ခန္ဓာဝန်ချတော်မူသောကြောင့် ဖြစ်ပါသည်။

၂၀၀၄ ဆရာတော်သည် ၁၃၆၆ ခု၊ တပို့တွဲလဆုတ် ၁၃ ရက်နေ့ ည ၉ နာရီ ၇ မိနစ်တွင် ဘဝခရီး အပြီးထွက်ခွာသွားတော့၏ဟူ၍ သိရှိရပါသည်။

(ကျမ်းကိုး၊ ကိုမင်း(အင်းတော်)နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၅ ခု၊ ဇူလိုင်လ၊ စာ-၁၂၉)

၂၀၀၄ ၁၃၆၆ ခု၊ တပို့တွဲလကွယ်နေ့ ညနေ ၄ နာရီအချိန်တွင် ဆရာတော်၏ ရုပ်ကလာပ်တော်ကို မူလတောကျောင်း ဓမ္မာရုံအနီး စံကျောင်းတော်သို့ ပင့်ဆောင်တော်မူခဲ့ကြောင်း သိရပါသည်။

## နဖူးသွေးကြောများ ရှင်နေခြင်း

ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို ၇ ရက် တိုင်တိုင်ထားသော်လည်း အနံ့ထွက်ခြင်းလုံးဝမရှိပါ။ အသေအချာ ဖူးရသူတို့၏ ပြောကြားချက်အရသိရသည်မှာ နဖူးတော်တွင် သွေးကြောနှစ်ခုကို ထင်ထင်ရှားရှားကြီး မြင်ရကြောင်း ပြောဆိုကြပါသည်။

၎င်းအပြင် မျက်မြင်များက ပြောဆိုကြသည်မှာ ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ဘေးတွင် စိုက်ထူထားသော ငှက်ပျောပင်များပင်လျှင် ၇ ရက်လုံးလုံး ညှိုးနွမ်းခြင်းမရှိဘူးဟု ဆိုပါသည်။

(ကျမ်းကိုး၊ မောင်ဗဟိန်း အင်းတတော် နက္ခတ္တရောင်ခြည် မဂ္ဂဇင်း ၂၀၀၅ ခု၊ ဇူလိုင်လ စာ ၄၆)

၂၀၀၄ ၁၃၆၆ ခု၊ တပေါင်းလဆန်း ၅ ရက်၊ တနင်္လာနေ့ ညနေ ၄ နာရီအချိန်တွင် ရုပ်ကလာပ်ဒတော်ကို မီးလောင်တိုက်သို့ ပင့်ဆောင်ကြပါသည်။ ၎င်းနောက် ညနေ ၄ နာရီ မိနစ် ၃၀ အချိန်တွင် မီးသင်္ဂြိုဟ်ကြပါသည်။ ၁၀ မိနစ်ခန့် ကြာသောအခါ ထူးဆန်းသော ရောင်ခြည်တော်တို့သည် ဦးခေါင်းတော်မှ ဖြာ၍ဖြာ၍ ထွက်လာကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ မောင်ဗဟိန်း အင်းတော် နက္ခတ္တရောင်ခြည်မဂ္ဂဇင်း ၂၀၀၅ ခု၊ ဇူလိုင်လ စာ ၄၆)



ရောင်စုံဖြာလျက် သစ်ပင်များကြား မြူးကွန့်ပြီးနောက် နေမင်းရှိရာ အာကာသသို့ တက်သွားပြီးလျက် ရောင်ခြည်တော်များနှင့်တကွ ရုပ်ပုံတော်များ ဖြစ်သွားရကြောင်း အားလုံးပင် ဖူးတွေ့ကြရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၆ )

၎င်းနောက် တပေါင်းလဆန်း ၆ ရက်နေ့ အင်္ဂါနေ့ နံနက် ၅ နာရီ အချိန်တွင် မိုးများရွာသွန်းပါသည်။

ထို့ကြောင့်ပင်လျှင် ကြွင်းကျန်ရစ်ခဲ့သော ဓာတ်တော်များဖြစ်ကြသော အရိုးတော်၊ သွားတော်၊ စွယ်တော် အံတော်များကို ရေဆေးပြီးသားအဖြစ် ကောက်ယူ ပူဇော်နိုင်ပါတော့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၆)

ထိုအရိုးတော် သွားတော်တို့မှလည်း ခရမ်းရောင် ပီပီသသကြီး ရောင်ခြည် တန်းများ ဖြစ်ပေါ်နေကြောင်း တွေ့ရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၆)

၎င်းနောက် ကောက်ယူရရှိသော စွယ်တော်၊ အရိုးတော်၊ သွားတော်၊ အံတော်တို့ကို သပိတ်ကြီးထဲတွင် ထည့်ရာ ဓာတ်တော်အပြည့်ရပါသည်။ ထိုသပိတ် တော် ဓာတ်တော်ကို မှတ်တမ်းတင်သောအခါမှာ သပိတ်တော်နှင့် ခပ်နီးနီးနေရာတွင် နေလုံးသဏ္ဍာန် အလင်းရောင် အဝန်းအဝိုင်းကြီး အစုအဝေးကြီးဖြစ်ပေါ် တည်ရှိနေ ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၆)

ကောက်ယူရရှိသော သွားတော်မှာ ၂၉ ချောင်း ရှိပါသည်။ အုန်းရေဖြင့် ဆေးကြောသောအခါ လက်ဖဝါးပေါ်တွင်ပင် ရောင်ခြည်များ ဖြာထွက်လျက်ရှိကြောင်း တွေ့ရှိရပါသည်ဟု မျက်မြင်များက ပြောဆိုကြပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၆)

၂၀၀၄ ၎င်းနောက် ၁၃၆၆ ခု၊ တပေါင်းလပြည့်ကျော် ၉ ရက်နေ့တွင် အရိုးတော် ဓာတ်တော် သွားတော် အံတော်၊ စွယ်တော် အပေါင်းတို့ကို ဌာပနာပြုလျက် စေတီ တည်ထားကိုးကွယ်ရန် အုတ်မြစ်စီ အခမ်းအနား ပြုလုပ်ခဲ့ပါသည်။

ဆရာတော်ကြီးကို မီးသင်္ဂြိုဟ်သောအခါ မျက်မှောက် အထင်အရှား ရှိကြသော ဆရာတော်များ မှာ ၁။ လယ်ပြင်ဆရာတော် ဦးပညာသာမိ၊ ၂။ ရွှာဟောင်းဆရာတော်၊ ၃။ နန့်ကင်းဆရာတော်၊ ၄။ နားခါးဆရာတော်၊ ၅။ နားနောင်ဆရာတော် ဦးပညာနန္ဒ၊ ၆။ မိုးယူဆရာတော် ဦးသုမန၊ ဦးကိတ္တိနှင့် ဦးဇဋိလ၊ ၇။ ရေတွင်းကုန်း ဆရာတော်တို့ဖြစ်ကြောင်း သိရှိရပါသည်။

ဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိမှာကား အလွန်မှတ်သားဖွယ်ရာ ဖြစ်ပါသည်။ အောက်တွင် ဖတ်ကြည့်ပါ။

## ဖွားသက္ကရာဇ်

၁၉၃၈ ဆရာတော်ကြီး၏ငယ်မည်မှာ မောင်အောင်သာဖြစ်သည်။ မောင်အောင်သာကို အေဒီ ၁၉၃၈ ခု၊ နိုဝင်ဘာလ ၆ ရက်၊ (၁၃၀၀ ခု၊ တန်ဆောင်မုန်းလဆန်း ၁၅ ရက်) တနင်္ဂနွေနေ့ နေ့လယ် ၁၂ နာရီ၊ ၅ မိနစ်တွင် ဖွားမြင်သည်။

## ဗန်းမော်မြို့နယ် ချောင်းဝရွာ ဇာတိ



ခမည်းတော် ဦးမောင်ဖြူနှင့် မယ်တော်မှာ ဒေါ်အေးဖြူ ဖြစ်သည်။ မွေးဖွားရာဇာတိမှာ ဗန်းမော်မြို့နယ် ချောင်းဝဖြစ်သည်။ ရေတိုက်စား၍ မန်ရေးရွာသို့ ပြောင်းရွှေ့နေထိုင်သည်။

## ထွန်စက်မောင်းသမား ဖြစ်ခဲ့

ငယ်စဉ်ဘဝတွင် မိရိုးဖလာ တောင်သူလယ်ယာလုပ်ငန်း၌ မိဘများနှင့်အတူ လုပ်ကိုင်သည်။ အရွယ်ရောက်သည့်အခါ စက်မှုလယ်ယာ ဦးစီးဌာနတွင် ထွန်စက်မောင်းအဖြစ် အမှုထမ်းသည်။ အင်းတော်မြို့နယ် မန်လည်အုပ်စုတွင် တာဝန်ကျရာ ဝါးဖြူတောင်သူ ဒေါ်ခင်သောင်းနှင့် အိမ်ထောင်ကျသည်။

၁၉၉၀ သားသမီး ၄ ဦးထွန်းကားသည်။ သားသမီးများ အရွယ်ရောက်သည့်အခါ ဇနီးအား ခွင့်တောင်းပြီး အေဒီ ၁၉၉၀ ခု (၁၃၅၂ ခုနှစ်)တွင် မန်လည်တောင်ကျောင်း စတုတ္ထဆရာတော် ဦးယုဂန္ဓရကို ဥပဇ္ဈာယ်ပြုပြီး ပဥ္စမဆရာတော် ဦးဉာဏဝံသကို အနုသာသနာ ဆရာအဖြစ်ထား၍ မြင့်မြတ်သော သာသနာ့ဘောင် ရဟန်းဘောင်သို့ ရောက်ခဲ့သည်။ ဘွဲ့မှာ ဦးက္ကန္ဓဝံသ ဖြစ်သည်။

(ကျမ်းကိုး၊ မောင်ဗဟိန်း (အင်းတော်) အင်းတော်မြို့နယ် မိုးယူဆည်ကြီးတောရ ဆရာတော် ဦးက္ကန္ဓဝံသ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း ၂၀၀၅ ခု၊ ဇူလိုင်လ ၊ စာ ၄၁-၄၆။)

ဆရာတော်ကြီး ခန္ဓာဝန်ချပြီးသောအခါမှာ တွေ့ရသည့် ဒိုင်ယာရီထဲတွင်ကား ပိုမို ကြည်ညို ဖွယ်ရာများ ဖတ်ရှုရကြောင်း သိရပါသည်။ ဆရာတော်ကြီး၏ လက်ရေးမူဖြင့် ရေးထားသော စာသား ဖြစ်သည်ဟု သိရပါသည်။ ဖတ်ကြည့်ပါ။

၁၉၉၉ (၁) (၁၃၆၁ ခုနှစ်၊ ပထမဝါဆိုလဆန်း (၉၊ ၁၀၊ ၁၁ ရက်) သုံးဆယ့် တစ်ဘုံဝဋ်ဒုက္ခ၌ ဉာဏ်အမြင် ရှင်းလင်းသည်။

(မှတ်ချက်။ အေဒီ ၁၉၉၉ ခု၊ ဇွန်လ ၂၀၊ ၂၁၊ ၂၂ ၊ တနင်္လာ၊ အင်္ဂါ၊ ဗုဒ္ဓဟူး )

၁၉၉၉ (၂) (၁၃၆၁ ခု၊ တော်သလင်းလပြည့်ကျော် ၉ ရက်နေ့)၌ နာမ် ရုပ် နှစ်ပါး အတွင်းအပြင်၌ အဟောင်းချုပ်၍ အသစ်မြင်ကြောင်း သုညတတ် သဘာဝသာတွေ့ သည်။ ခန္ဓာသမုဒယ တွယ်တာမှုကင်းသည်။ ဉာဏ်မြင့်သည်။

(မှတ်ချက်။ အေဒီ ၁၉၉၉ ခု၊ အောက်တိုဘာ ၃ ရက်၊ တနင်္ဂနွေနေ့ )

၁၉၉၉ (၃) သီတင်းကျွတ်လဆန်း ၁၂ ရက်၊ ညဉ့် သစ္စာရှင်းလင်းသည်။ ခန္ဓာကင်း ချုပ်သည်။

(မှတ်ချက်။အေဒီ ၁၉၉၉ခု၊ အောက်တိုဘာ ၂၁ ရက်၊ ကြာသပတေးနေ့)

ဆရာတော် ခန္ဓာဝန် မချမီက မိန့်ခဲ့ဖူးသည်မှာ -

"လေးသစ္စာ အောင်တော်မူဘုရား တောင်ရိုးအရောက်မှ သစ္စာဉာဏ် လမ်းကြောင်း"မှတ်သားခဲ့ရပါသည် ဟူ၍ ပါရှိပါသည်။

(ကျမ်းကိုး၊ မောင်ဗဟိန်း (အင်းတော်) အင်းတော်မြို့နယ် မိုးယူဆည်ကြီးတောရ ဆရာတော် ဦးက္ကန္ဓဝံသ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း ၂၀၀၅ ခု၊ ဇူလိုင်လ ၊ စာ ၄၅ - ၄၆)



ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ရာမှာ ထူးခြားသော ဖြစ်ရပ်များကို ကိုယ်တွေ့ကြုံတွေ့ခဲ့ရသော ပုဂ္ဂိုလ်တစ်ဦး၏ မှတ်တမ်းကို တဆိတ်လောက် ဖတ်ကြည့်ပါ။

ယင်းအချိန်မှာ ကျွန်တော်လည်း ရိုကျိုးစွာ လက်အုပ်ချီပြီး မတ်တတ်ရပ်လျက် ဖူးမြော်နေသည်။ ဤအချိန်မှာတွင်ပဲ ဦးခေါင်းတော် မီးခရာမှ မျိုးစုံသော ရောင်တော်များ ကွန့်မြူးလာပြီး မီးတောက်မီးလျှံထဲတွင် ဆရာတော်ပုံသဏ္ဌာန် အမျိုးမျိုးပေါ်ထွက်လာ၏။ ထို့နောက် ထိုရောင်တော်အလုံးများ ကောင်းကင်သို့ ဆန်တက်သွားပြီး နေလုံးကြီးထဲရောက်သွားကာ ရောင်စုံများ ဆလိုက်မီးထိုးသကဲ့သို့ ကစားလျက် နေမင်းအရောင်မှိန်၍ နေလုံးထဲတွင် ရောင်တော်များကွန့်မြူးပြီး ဆရာတော့် ပုံသဏ္ဌာန် အမျိုးမျိုး ပေါ်ထွက်နေပြန်သည်။

ယင်းရောင်တော်များ ကွန့်မြူးနေသည်မှာ တစ်နေရာတည်းမဟုတ်၊ ဆရာတော့် ကျောင်းသခ်မ်း၊ ဆရာတော် တရားအားထုတ် ဝတ်ပြုရာ လေးသစ္စာအောင်တော်မှ ဘုရားကုန်းတော်တွေမှာလည်း ကွန့်မြူးနေပြန်သည်။ ယင်း ရောင်တော် အရောင်များ အင်အား မည်မျှကြီးမားသလဲဆိုလျှင် လူအများ ကိုယ်ခန္ဓာများပေါ်တွင်မက သစ်ပင်တောတောင်များအထိ ရောင်စဉ်တွေ ခြုံလွှမ်းလျက် ရှိနေပါသည်။

လူအများ၏ အသံများ၊ အရိပ်များ၊ ကျွန်တော့်အာရုံတွင် မရှိတော့။ မျက်လုံးအစုံမှ စီးကျလာသော မျက်ရည်များလည်း သုတ်ရမည်မသိ။ ဝမ်းနည်းခြင်း၊ ယူကျုံးမရဖြစ်ခြင်း၊ တန်ဖိုးကြီးမား ရတနာအမြတ်တစ်ခု ဆုံးရှုံးရခြင်းတို့ ဘာသာတရားဟာ တကယ့်အတုအတူမရှိ စစ်မှန်သော ဘာသာတရားပါ တကားလို့ စိတ်တွင် အောက်မေ့ ပီတိတွေဖြင့် မွေ့လျော်နေခြင်း စသည့်အကြောင်းများကြောင့် သတင်းထောက်ကြီးရဲ့ ဓာတ်ပုံရိုက်ပါ၊ ဓာတ်ပုံရိုက်ပါဟုပြောသည့် အသံများသည်လည်း နားမှာကြား၏။ လိုက်နာဆောင်ရွက်ဖို့ သတိမရတော့။

ယင်း တဒင်္ဂအချိန်ကလေးမျိုး ကျွန်တော့်ဘဝ တစ်သက်တာတွင် မကြုံဖူးခဲ့။ နောက် ထူးခြားချက်တွေကား မီးအပူရှိန် ကြီးမားသော်လည်း ဘေးမှ စိုက်ထားသော ငှက်ပျောပင်၊ သစ်ပင်များ ညှိုးနွမ်းမသွားခြင်း၊ လှုပ်ခတ်မသွားခြင်း၊ အလောင်းတော် မီးသင်္ဂြိုဟ်ရာ မီးခရာတွင် ညှော်အနံ့အသက် လုံးဝမထွက်ခြင်း ကျန်ရှိခဲ့သော အရိုးတော်၊ စွယ်တော်၊ သွားတော်များ ကောက်ယူပြီး အုန်းရည်ဖြင့် ဆေးကြော သန့်စင်ရာ ကိုကျော်မင်း (မအူကုန်းရွာ) ကိုသန်းဆွေ (အင်းတော်မြို့)တို့၏ လက်ထဲကိုင်ဆောင်ထားစဉ် ရောင်ခြည်တော်များ ထပ်မံကွန့်မြူးခြင်းတို့ ထူးကဲစွာဖြစ်ပေါ်သည်။

(ကျမ်းကိုး။ ကိုမင်း(အင်းတော်)၏ ကိုယ်တွေ့ကို ဖတ်ရှုရလျှင်လည်း သင်လည်း အလွန်ကြည်ညိုလိမ့်မည်ဟု ယူဆပါသည်။)

အထက်အချက်များမှာ ရုပ်ကလာပ်တော် မီးသင်္ဂြိုဟ်ရာမှ ထူးဆန်းသော ဖြစ်ရပ်များဖြစ်ပါသည်။ ဆရာတော်ကြီး တရားအားထုတ်ရာ တောတောင်ပတ်ဝန်းကျင်တွင်လည်း အထူးအဆန်းများနှင့် ပြည့်လျှံနေလျက်ရှိပါသည်။ တောအန္တံတောင်အန္တံတွင် အထူးခြားဆုံးမှာ ဉာဏ်တော်တစ်ပေခွဲခန့် စေတီငယ်ကလေးများ ဖြစ်ပါသည်။

ထိုစေတီငယ်ကလေးများမှာ ထိုအနီးအနားတစ်ဝိုက်တွင် အဆူပေါင်း တစ်ရာနှစ်ရာမက၊ ရာထောင်ချီ၍ ရှိလိမ့်မည်ဟူ၍ပင် သိရှိရပါသည်။ ထိုကျောက်ခဲပုံ စေတီကလေးများမှာ အလွန်ထူးခြားကြောင်း သိရပါသည်။

## အထူးအဆန်းကျောက်ခဲပုံ စေတီလေးများ ရာ ထောင်



တောအနှံ့ တောင်အနှံ့ ကျောက်ခဲပုံ စေတီလေးများ တည်ထားကြသည်မှာ အလွန်ပဲ များပြားလှလေသည်။ ပို၍ထူးခြားသည်မှာ ဆရာတော်ကြီး၏ ကျောင်းသခ်မ်း အနီး ချောင်းရိုးအတွင်း ရေကသိုဏ်းရှုရာ နေရာတစ်ဝိုက် ရာထောင်ချီရှိ ကျောက်ပုံ စေတီလေးများပဲဖြစ်သည်။

ချောင်းထဲ ရေသောက်ဆင်းကြသော ကျွဲ၊ နွားများ တိုက်လဲသွားခြင်းမရှိ၊ ပြိုပျက်သွားခြင်းမရှိ။ ကျွန်တော်တို့ ဖူးမြော်နေဆဲ ကျွဲသုံးကောင်ချောင်းထဲ ရေဆင်း ဝပ်ရန်သွားရာ ယင်းကျောက်ပုံ စေတီလေးများကို ရှောင်ကွင်းသွားကြခြင်းပင် ဖြစ်သည်။

ချောင်းထဲမှ ကျွန်တော်တို့ သုံးယောက် ပြန်အတက်တွင် မောင်လှမှာ အံ့ဩတကြီး ကျောက်ပုံစေတီလေးတစ်ဆူကိုပြသည်။ ထိုစေတီမှာ ညဏ်တော်တစ်ပေ ခွဲခန့်ရှိပြီး အဆင့်ဆင့် ကျောက်ခဲကလေးများ စီထားပါသည်။

အပေါ်ဆုံး ဒုတိယ ကျောက်ခဲမှာ အောက်တတိယ ကျောက်ခဲအထက်မှာ ဒေါင်လိုက်ထပ်ထားသည်။ ကျောက်ခဲနှစ်ခု ထိချက်မှာ မြေပဲဆန်အစေ့လောက် သာရှိ၍ ထိချက်အလယ်မှာ လွတ်နေပြန်၏။ ဘေးနှစ်ဖက်တွင် အင်မတန်သေးငယ် သည့် ထိချက်ကလေးနှင့်သာ ရပ်တည်လျက်ရှိ၏။ သူ့အပေါ်တွင် ထီးသဖွယ် ကျောက်ခဲ အသေးလေး တစ်လုံးတင်ထားပြန်၏။ သာမန်ပုဂ္ဂိုလ်များ တည်ထားခြင်း မဟုတ်သည်မှာ ထင်ရှားလှလေသည်။

(ကျမ်းကိုး၊ ကိုမင်း (အင်းတော်) နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၅ ခု၊ ဇူလိုင်လ၊ စာ ၁၂၉ -၁၃၂)

ဟူ၍ ကိုယ်တွေ့မှတ်တမ်းတွင် ဖတ်ရပါသည်။

၂၀၀၄ ဆည်ကြီးမိုးယူတောင်ဆိုသည်မှာ စစ်ကိုင်းတိုင်းဒေသကြီး၊ ကသာခရိုင်၊ အင်းတော်မြို့ နှင့် ၄ မိုင်ခန့်ကွာတွင်ရှိကြောင်း သိရှိရပါသည်။ ဆရာတော် ဘုရားကြီး၏ ကျန်ရှိခဲ့သော ဓာတ်တော်များအား ဓာတ်ပေါင်းစု လွမ်းစေတီအဖြစ် ၁၃၆၆ ခုနှစ်၊ တပေါင်းလပြည့် ကျော် ၉ ရက်၊ နံနက် ၉ နာရီအချိန်တွင် စတင်အုတ်မြစ်ချကြောင်း သိရပါသည်။

(ကျမ်းကိုး၊ ကျောင်းတော်ရာ မောင်လှ၊ ဆည်ကြီးမိုးယူတောင်ဆရာတော် ဦးဣန္ဒဝံသ ပျံလွန်တော်မူ၍ မီးသင်္ဂြိုဟ်ရာမှ ရောင်ခြည်တော်များ ထူးဆန်းအံ့ဩဖွယ် တွန့်မြူးခြင်း၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၅ ခုနှစ်၊ ဇူလိုင်လ စာ ၈၇-၈၉ )

(ကျမ်းကိုး၊ ကိုမင်း (အင်းတော်) နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၅ ခု၊ ဇူလိုင်လ၊ စာ ၁၂၉-၁၃၂ )

(ကျမ်းကိုး၊ မောင်ဗဟိန်း (အင်းတော်) အင်းတော်မြို့နယ် မိုးယူဆည်ကြီးတောရ ဆရာတော် ဦးဣန္ဒဝံသ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း ၂၀၀၅ ခု၊ ဇူလိုင်လ ၊ စာ ၄၅ - ၄၆ )

ဝိဇ္ဇာအထွေထွေဂုဏ်ထူး ၊ မဟာဝိဇ္ဇာဂုဏ်ထူးဘွဲ့ရ ဦးလှမြင့်အမည်ခံ ကဗျာဆရာ ၊ စာရေးဆရာ ၊
စာပေသုတေသီ ၊ ယခင် ရန်ကုန်တက္ကသိုလ် မြန်မာစာဌာန ၊ မြန်မာစာဆရာ

**မြန်မာနိုင်ငံ ဝင်္ဂဝတ္တိ ထေသနာဝင် ရဟန္တာနှင့် ရဟန်းထူးများ(ပထမတွဲ)တွင်**
**(၈၉)ပါး ဖော်ပြခဲ့ပြီးဖြစ်သဖြင့် ယခုဆက်လက်၍ နောက်ထပ် ရှာဖွေတွေ့ရှိ**
**သုတေသနပြုထားသော (၁၀၀)ပါးကို ထပ်မံဖော်ပြသည့်**

## မောင်ပန်းမွေး ပြုစုသည့်

# မြန်မာနိုင်ငံ ရဟန္တာ နှင့် ရဟန်းထူးများ

## (ဒုတိယတွဲ)



စာမူခွင့်ပြုချက်အမှတ် - ၃၂၀၄၄၁၀၇၀၇

**တော်ဝင်မြို့မစာအုပ်တိုက်မှ ထုတ်ဝေသည်။**